

ပုဂံပြည့်ရှင် အလောင်းစည်သူမင်းကြီး၏ ကောင်းမှုတော် သဗ္ဗညုဘုရား

# မြန်မာ့စွယ်စုံကျမ်း

စာပေဗိမာန်

၏

## ရုပ်ပြဗဟုသုတဘဏ်





အတွဲ — ၁၃

သပိတ် — ဟက်

ရန်ကုန်မြို့

မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း

# ဤကျမ်းကိုမရှုစားမီ

**အောက်ပါလမ်းညွှန်ကိုလေ့လာထားပါက ဤစွယ်စုံကျမ်းစီစဉ်ပုံကို ကောင်းစွာသဘောပေါက်၍ ကိုးကားရာကျမ်းတဆူအဖြစ် လွယ်ကူစွာ အသုံးပြုတတ်ပေလိမ့်မည်။**

**အက္ခရာစဉ်ဇယား။** ။စွယ်စုံကျမ်းတွင်ပါဝင်သော အကြောင်းရပ်များကို လွယ်လင့်တကူ ရှာဖွေဖတ်ရှုနိုင်ရန် အက္ခရာစဉ်ဇယားကို အတွဲတိုင်း၌ဖော်ပြထားသည်။

**ဝေါဟာရနှင့်အမည်များ။** ။ဤကျမ်းမှာ ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသောပညာရပ်အမျိုးမျိုး၊ အကြောင်းရပ် အမျိုးမျိုးတို့ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလို ပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားရသောအမည်များ မြောက်မြားစွာပါဝင်သည်။ ယင်းတို့ကို မူရင်းစကားနှင့်တကွ ဤကျမ်း၏နောက်ပိုင်းတွင် ကဏ္ဍသီးခြား၍ အက္ခရာစဉ်အတိုင်းဖော်ပြထားသည်။

**မြန်မာအမည်များ။** ။ရဟန်းရှင်လူဆိုင်ရာ အကြောင်းရပ်များကို ခေါင်းစည်းပေးရာ၌၊ အမည်ရှေ့ရှိ သျှင်၊ ဦး၊ ဒေါ်၊ ကို၊ မောင်၊ မ စသည်တို့နှင့်တကွ အခြားဂုဏ်ပုဒ်များကို အမည်ရင်းနောက်တွင်ထား၍၊ အမည်ရင်းကိုသာ အက္ခရာစဉ် အလိုက် စီစဉ်ဖော်ပြထားသည်။ ပုံစံအားဖြင့် သျှင်ကရဝိက၊ ခုံတော်မောင်ကျဘမ်း၊ ဦးချိန်၊ မြဝတီဝန်ကြီးဦးစ တို့ကို ကရဝိက၊ သျှင်။ ကျဘမ်း၊ မောင်၊ ခုံတော်။ ချိန်၊ ဦး။ စ၊ ဦး၊ မြဝတီဝန်ကြီး ဟူ၍ အသီးအသီးဖော်ပြထားသည်။ ဤသို့ပြုလုပ်ခြင်းမှာ ပုဂ္ဂိုလ်ကို မလေးစား၍ မဟုတ်၊ စွယ်စုံကျမ်းများထုံးတမ်းစဉ်လာအရ အကြောင်းရပ်ရှာဖွေရ လွယ် ကူစေရန်သာဖြစ်ရာ၊ လူမျိုးခြားအမည်များကိုလည်း အလားတူပင်စီစဉ်ဖော်ပြထားသည်။

**ဖတ်ချင်ဖွယ်ရာအဖြာဖြာ။** ။တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ၊ သို့မဟုတ် ဝါသနာအလျောက် သမိုင်းဖြစ်စဉ်များ၊ တိုင်းနိုင်ငံများ၊ ပုဂ္ဂိုလ်ကျော်များ၊ စာပေဝတ္ထုများ၊ အနုပညာရပ်များ၊ သိပ္ပံပညာရပ်များ၊ လုပ်ငန်းကြီးများ၊ သစ်ပင်များ၊ တိရစ္ဆာန်များ၊ ကစားခုန်စားများအကြောင်းကို သိလိုသောအခါ အကူအညီရစေရန် ဖတ်ချင်ဖွယ်ရာအဖြာဖြာကို အတွဲတိုင်း၌ထည့်သွင်းထားသည်။

**ဗဟုသုတစစ်တမ်း။** ။စွယ်စုံကျမ်းအတွဲတိုင်းတွင် ဗဟုသုတစစ်တမ်းကိုထည့်သွင်းထားသည်မှာ၊ စာရှုသူသည် ဤစစ်တမ်းဖြင့် မိမိကိုယ်ကိုမိမိ ပြန်လည်မေးခွန်းထုတ်၍ မသိသေးသောအကြောင်းအရာကို သိလိုပါက၊ ညွှန်းထားသောနေရာတွင် ပြန်လည်ဖတ်ရှုလေ့လာနိုင်စေခြင်းငှာ ရည်ရွယ်သည်။ ထိုစစ်တမ်းတွင် အတွဲတွင်းပါ အကြောင်းရပ်အားလုံးငုံမိအောင် မေးခွန်းထုတ်ထားခြင်း မဟုတ်ချေ။ စိတ်ဝင်စားဖွယ်အချက်အလက်များ အတွက်သာလျှင် မေးခွန်းများကို ရွေးချယ်စီစဉ်ထားခြင်းဖြစ်သည်။

**အပြန်အလှန်အညွှန်း။** ။စွယ်စုံကျမ်းအကြောင်းရပ်တို့မှာ အက္ခရာအလိုက်စီစဉ်ထားသည့်အလျောက်၊ ဘာသာရပ် အလိုက် တစုတဝေးတည်းမရှိဘဲ နေရာအနှံ့အပြား ကွဲပြားလျက်ရှိကြသည်။ သို့ဖြစ်၍ အကြောင်းရပ်ချင်းဆက်စပ်နေ သည့်အချက်အလက်တို့ကို အပြန်အလှန်ညွှန်းပြရသည်။ စာကိုယ်မှအကြောင်းရပ်ခေါင်းစည်းမှ စာကိုယ်ရှိအကြောင်း ရပ်ခေါင်းစည်းသို့ရင်း၊ အကြောင်းရပ်တခုနှင့်တခု ပညာသဘောအားဖြင့် ဆက်သွယ်နေသော်လည်း တသီးတခြားစီ ရှိသဖြင့် ပိုမိုပြည့်စုံစွာ လေ့လာစေလိုသောအခါတွင်ရင်း၊ (........................ — ရှု။) ဟုညွှန်းသည်။ ပညာသဘော အားဖြင့် ဆက်သွယ်ခြင်း မရှိစေကာမူ၊ တနည်းတလမ်းအားဖြင့် နီးစပ်သည့် အကြောင်းရပ်တခုကို စိတ်ဝင်စားဖွယ်ဖြစ်၍ လေ့လာစေလိုသောအခါတွင် (........................ — လည်းရှု။) ဟုညွှန်းသည်။

**ကြောင်းခြင်းရာအညွှန်းအတွဲ။** ။နောက်ဆုံးအတွဲသည် စာရှုသူအဖို့ အခါမရွေး ကိုးကားရန်လမ်းညွှန်ပင်ဖြစ် သည်။ ထိုအတွဲသည် အသီးသီးသောအတွဲများအတွက် အက္ခရာစဉ်အညွှန်းဖြစ်ရုံမျှမက၊ လုံးချင်းစွယ်စုံခေါ်လောက် ပေသည်။ ထိုအတွဲတွင် ကမ္ဘာ့သမိုင်းမှတ်တမ်းတင်သည်မှ မျက်မှောက်ခေတ်အထိ ပေါ်ပေါက်ဖြစ်ပျက်ခဲ့သော မှတ်သား ဖွယ်ရာအကြောင်းအရာများကို နှစ်၊ လ၊ ရက် အပိုင်းအခြားနှင့်သိနိုင်စေရန် နှစ်လုံးပတ်လည်ဖော်ပြထားသော ကမ္ဘာ့ ပြက္ခဒိန်ကိုရင်း၊ ပညာရပ်များကို စံနစ်တကျ တဆင့်ပြီးတဆင့် ပြည့်စုံစွာလိုက်စားနိုင်ရန် ပညာရပ်မာတိကာကိုရင်း၊ ထည့် သွင်းထားသည်။ ထိုနောက် အသီးသီးသောအတွဲများတွင်ပါဝင်သည့် အကြောင်းရပ်များကို လွယ်ကူစွာလှန်လှော ရှာဖွေနိုင်ရန် ညွှန်ပြသော ကြောင်းခြင်းရာအညွှန်းကိုလည်း စီစဉ်ဖော်ပြထားသည်။ ထိုအညွှန်းတွင် စွယ်စုံကျမ်းပါ အကြောင်းရပ်များကိုသာမက၊ စွယ်စုံကျမ်းစာကိုယ်တွင် မပါဝင်လင့်ကစား သိသင့်သိထိုက်သောအကြောင်းရပ်မြောက် မြားစွာကိုလည်း မှတ်သားဖွယ် အချက်အလက်များနှင့်တကွ ဖြည့်စွက်ဖော်ပြထားသည်။

# အက္ခရာစဉ်ဇယား

ဤကျမ်းပါအကြောင်းရပ်များကို အောက်ပါအက္ခရာစဉ်အတိုင်း စီစဉ်ထားသည်

၁။ အ
၂။ အာ
၃။ အား

၄။ အိ
၅။ အီ
၆။ အီး

၇။ အု
၈။ အူ
၉။ အူး

၁၀။ အေ့
၁၁။ အေ
၁၂။ အေး

၁၃။ အဲ့
၁၄။ အယ်
၁၅။ အဲ
} နောက်ပစ် နှင့် ယသတ်

၁၆။ အော့
၁၇။ အော်
၁၈။ အော

၁၉။ အို့
၂၀။ အို
၂၁။ အိုး

၂၂။ အက်
၂၃။ အောက်
၂၄။ အိုက်
} ကသတ်

၂၅။ အင့်
၂၆။ အင်
၂၇။ အင်း
} ငသတ်

၂၈။ အောင့်
၂၉။ အောင်
၃၀။ အောင်း
၃၁။ အိုင့်
၃၂။ အိုင်
၃၃။ အိုင်း
} ငသတ်

၃၄။ အစ် — စသတ်

၃၅။ အည့်
၃၆။ အည်
၃၇။ အည်း
} ညကြီးသတ်

၃၈။ အဉ့်
၃၉။ အဉ်
၄၀။ အဉ်း
} ဉကလေးသတ်

၄၁။ အတ်
၄၂။ အိတ်
၄၃။ အုတ်
} တသတ်

၄၄။ အန့်
၄၅။ အန်
၄၆။ အန်း
၄၇။ အိန့်
၄၈။ အိန်
၄၉။ အိန်း
၅၀။ အုန့်
၅၁။ အုန်
၅၂။ အုန်း
} နသတ်

၅၃။ အပ်
၅၄။ အိပ်
၅၅။ အုပ်
} ပသတ်

၅၆။ အမ့်
၅၇။ အမ်
၅၈။ အမ်း
၅၉။ အိမ့်
၆၀။ အိမ်
၆၁။ အိမ်း
၆၂။ အုမ့်
၆၃။ အုမ်
၆၄။ အုမ်း
} သေးသေးတင် နှင့် မသတ်

| | | |
|---|---|---|
| ၆၅။ | ျ | ယပင့် |
| ၆၆။ | ြ | ရရစ် |
| ၆၇။ | ွ | ဝဆွဲ |
| ၆၈။ | ှ | ဟထိုး |
| ၆၉။ | ျွ | ယပင့် ဝဆွဲ |
| ၇၀။ | ြွ | ရရစ် ဝဆွဲ |
| ၇၁။ | ျှ | ယပင့် ဟထိုး |
| ၇၂။ | ြှ | ရရစ် ဟထိုး |
| ၇၃။ | ွှ | ဝဆွဲ ဟထိုး |
| ၇၄။ | ျွှ | ယပင့်ဝဆွဲဟထိုး |
| ၇၅။ | ြွှ | ရရစ်ဝဆွဲဟထိုး |

# ဖတ်ချင်ဖွယ်ရာအဖြာဖြာ

**တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ အောက်ပါ လိုရာအကြောင်းရပ်တို့မှ ဆူရာရွေးနှတ်၍ လေ့လာပါက စာရှုသူသည် အပျင်းလည်းပြေ ဗဟုသုတလည်းပွားပေလိမ့်မည်။ ထိုင်ရာမထဘဲ ကမ္ဘာ့မြို့ကြီး၊ နယ်ကြီး၊ နိုင်ငံကြီးများသို့ရောက်၍ ပုဂ္ဂိုလ်ကျော်များနှင့် ရင်းနှီးကာ ကမ္ဘာ့သမိုင်းကိုလည်း သုံးသပ်ခွင့် ရနိုင်မည့်ပြင် သိပ္ပံပညာ၏ အံ့ဖွယ်ရာအကြောင်းများကိုလည်း သိနားလည်လာပေလိမ့်မည်။ ထို့မျှမက အနုစာပေဂန္ထဝင်များ၏အရသာကိုပါ ထင်ရှားစွာခံစားရမည့်ပြင် အားလပ်ခိုက် အပျင်းပြေရန်နည်းများလည်း ရရှိပေအံ့။**

### ထင်ပေါ်ကျော်ကြား ပုဂ္ဂိုလ်များ



### တိကျသိအပ် အရပ်ရပ်



### သုခုမဝင် ကြောင်းစုံလင်



### တမြေရပ်ခြား ဒေသများ



### သစ်ပင်ပန်းမာလ် တိရစ္ဆာန်



### သိပ္ပံအံ့ဖွယ် အသွယ်သွယ်



### လုပ်ငန်းဆောင်တာ အဖြာဖြာ



### အားလပ်ချိန်ဝယ် ပျော်ရွှင်ဖွယ်



### လောကီထုပ္ပတ် လူတို့ဇာတ်

# ဗဟုသုတစစ်တမ်း

ဤကျမ်းတွင် များစွာသောပြဿနာတို့ကို ဖြေရှင်းထားပေသည်။ စာရှုသူသည် မိမိမည်မျှမှတ်မိ၍ အသိဥာဏ်အခြေ၊ ဗဟုသုတအခြေ မည်မျှကြွယ်ဝနေပြီကို မှတ်ကျောက်တင်ကြည့်ရန် အောက်ပါမေးခွန်းများဖြင့် စစ်တမ်းထုတ်သင့်ပေသည်။ အကယ်၍ အဖြေမပေးနိုင်ရှိအံ့၊ ညွှန်းထားရာစာမျက်နှာတွင် ပြန်လည်ဖတ်ရှုလေ့လာရန် တိုက်တွန်းရပေသည်။

# ကျေးဇူးပြုသူများ

မြန်မာ့စွယ်စုံကျမ်းတွင် စာမျက်နှာတိုင်း၌ ရုပ်ပုံဓာတ်ပုံစသည်ဖြင့် ဝေဆာစွာမွမ်းမံရန် ကြိုးပမ်းခဲ့ရာ၌ နိုင်ငံတွင်းနိုင်ငံပမှ အကူအညီများရခဲ့သည်။ နိုင်ငံပမှဆိုလျှင် လန်ဒန်မြို့ ပစ်ချာပိုလိုက်ဗရေရီနှင့် ပေါပေါ့ပါးမှရင်း၊ နယူးယော့မြို့ အီဝင် ဂယ်လိုဝေမှရင်း၊ ဓာတ်ပုံများ ဝယ်ယူပုံနှိပ်ခွင့်ရခဲ့သည်။ နိုင်ငံတွင်းမှ ကူညီသူ ရာပေါင်းများစွာရှိသည့်အနက် စွယ်စုံကျမ်းနှင့်ထိုက်တန်သည့် ရုပ်ပုံ၊ ဓာတ်ပုံ၊ မြေပုံ စသည်တို့ကို အောက်ပါဌာနကြီးများနှင့် ပညာရှင်များထံမှ ရရှိပါ၍ ကျေးဇူး အထူးတင်ပါကြောင်း။

| အမည် | နေရပ် | ဓာတ်ပုံပါစာမျက်နှာ |
|---|---|---|
| ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရ | | ၄၊ ၁၈၊ ၁၉၊ ၂၀၊ ၂၇၊ ၆၀၊ ၁၂၃၊ ၂၀၉၊ ၂၁၆၊ ၂၁၇၊ |
| မြန်ကြားရေးနှင့်အသံလွှင့်ဦးစီးဌာန | ရန်ကုန်မြို့ | ၂၁၈၊ ၂၁၉၊ ၂၃၅၊ ၂၈၁၊ ၃၀၀၊ ၃၀၆၊ ၃၀၈၊ ၃၀၉၊ ၃၁၀၊ ၃၁၁၊ ၃၃၀၊ ၃၃၁၊ ၃၄၂၊ ၃၅၃၊ ၃၅၇၊ ၃၆၈၊ ၃၉၃၊ ၃၉၇၊ ၄၀၀၊ ၄၃၅ |
| ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရ ရှေးဟောင်းသုတေသန ဦးစီးဌာန | | ၄၇၊ ၄၈၊ ၄၉၊ ၅၀ |
| ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရ ယဉ်ကျေးမှု ဦးစီးဌာန | | ၄၄၊ ၄၅ |
| ချင်းရေးရာဦးစီးအဖွဲ့ရုံး | ဟားခါးမြို့ | ၄၃၆ |
| ဦးကိုလေး | တောင်ကြီးမြို့ | ၄၈၀ |
| ကြည်မြလွင် | မော်လမြိုင်မြို့ | ၂၁၂၊ ၂၂၆ |
| ခင်လေးမောင် | ရန်ကုန်မြို့ | သစ်ပန်းပု (ရောင်စုံပုံ)၊ သဗ္ဗညုဘုရား (ရောင်စုံပုံ) |
| ဦးချစ်သန်း | ။ | ၂၅၄ |
| ဦးချစ်သိန်း | သံကုန်းမြို့ | ၁၈၀ |
| ဦးစိုး | ရန်ကုန်မြို့ | ၄၃ |
| ဦးစိန်တင် | ။ | ၃၆၇၊ ၄၆၆ |
| ဒေါ်ထားထား | ။ | ၄၂၃ |
| ဦးထင်ကြီး | ။ | ၇၀၊ ၃၄၈၊ ၄၂၇ |
| ဦးထွန်းရည် | ။ | ၇၊ ၉၊ ၁၁၊ ၃၂၊ ၅၆၊ ၈၃၊ ၂၂၅၊ ၂၄၆၊ ၃၇၄ |
| ဦးပရမ၊ မေဃဝတီကျောင်း၊ သရက်တောကျောင်းတိုက် | ။ | သိဒ္ဓတ္ထ (ရောင်စုံပုံ) |
| ဦးဖန်ကူးလ် | ။ | ၄၂၆ |
| ဦးမင်းနိုင် | ။ | ၁၉၉ |

| အမည် | နေရပ် | ဓာတ်ပုံပါစာမျက်နှာ |
|---|---|---|
| ဦးမောင်ကလေး ( ၂ ) | ရန်ကုန်မြို့ | ၂၆၇၊ ၂၆၈၊ ၂၆၉၊ ၂၇၀၊ သစ်ခွပန်း (ရောင်စုံပုံ). |
| ဦးမြင့်သိန်း | ။ | ၃၈၀ |
| ဦးလှမောင် | ။ | ၃၇၇ |
| ဒေါက်တာလှမြင့် | မန္တလေးမြို့ | ၁၅၁ |
| ဦးဝါသဝ၊ တောပုရှာ တောရကျောင်းဆရာတော် | မုံရွာခရိုင် | သိဒ္ဓတ္ထ (ရောင်စုံပုံ) |
| ဦးသောဘိတ ( ရွှေကိုင်းသား ) | စစ်ကိုင်းမြို့ | ၆၁ |
| ဦးသောင်းခင် | ကျောက်မဲမြို့ | ၁၃၀ |
| ဦးဟန်ဒလေ | ရန်ကုန်မြို့ | ၂၀၆ |
| လူထုဒေါ်အမာ | မန္တလေးမြို့ | ၆၁ |
| ဦးအေးကြူ | ရန်ကုန်မြို့ | ၁၇၁ |
| ဂျပန်သံရုံး | ။ | ၄၄၅၊ ၄၄၆ |
| အမေရိကန်သံရုံး၊ ပြန်ကြားရေးဌာန | ။ | ၁၅၄၊ ၃၅၄ |
| ရှမဝမဂ္ဂဇင်းတိုက် | ။ | ၄၀၇၊ ၄၀၈၊ ၄၁၀၊ ၄၁၁၊ ၄၁၂၊ ၄၁၃ |
| သွေးသောက်မဂ္ဂဇင်းတိုက် | ။ | ၂၂၀၊ ၂၂၂ |

# ရဟန်းတော်တို့၏ အသုံးအဆောင်

ရဟန်းတော်တို့၏ အသုံးအဆောင် ပရိက္ခရာ ရှစ်ပါးတွင် သပိတ်သည် အပါအဝင် ဖြစ်၏။ မည်သည့် သပိတ်မျိုးကို ကိုင်တွယ် သုံးဆောင်ရမည်ဟု မပညတ်မသတ်မှတ်မီအခါက ရဟန်းတော်များသည် လူတို့၏ အသုံးအဆောင်ဖြစ်သည့် အမျိုးမျိုးသော သပိတ်တို့ကို ကိုင်တွယ်သုံးဆောင်ကြသည်။ ထိုကြောင့် ဘုရားရှင်သည် ၁၁ လုံးသော သစ်သား၊ ရွှေ၊ ငွေ၊ ပတ္တမြား၊ ကျောက်မျက်ရွဲ၊ ဖန်၊ ကြေးဖြူ၊ စဥ့်၊ သလွဲဖြူ၊ သလွဲမည်း၊ ကြေးနီ သပိတ်တို့ကို ပယ်မြစ်၍ မြေသပိတ်နှင့် သံသပိတ်တို့ကိုသာ ခွင့်ပြုတော်မူသည်။

**သပိတ်။** ။ရဟန်းတော်တို့ ဆွမ်း စသော အာဟာရတို့ကို ခံယူ သုံးဆောင်ခြင်းငှာ အပ်သော သပိတ်သည် မြေသပိတ်၊ သံသပိတ် ဟု နှစ်မျိုးရှိသည်။ ယင်းသပိတ်တို့သည် အဆင်း အရောင် လိုလောက်မှ အဓိဋ္ဌာန်၊ ဝိကပ္ပနာသောက်သည် ဖြစ်၍ သပိတ်အရာဝင်သည်။

သပိတ်သည် (၁) သပိတ်ကြီး၊ (၂) သပိတ်လတ်၊ (၃) သပိတ်ငယ် ဟူ၍ မူရင်းအားဖြင့် သုံးလုံး ရှိသည်။

ထိုတွင် သပိတ်ကြီးသည် (က) သပိတ်ကြီးထက် ကြီးသော သပိတ်၊ (ခ) သပိတ်ကြီး၊ (ဂ) သပိတ်ကြီးအောက် ငယ်သော သပိတ် ဟူ၍ သုံးလုံး။ ထိုအတူ သပိတ်လတ်သည် လည်း (က) သပိတ်လတ်ထက် ကြီးသော သပိတ်၊ (ခ) သပိတ်လတ်၊ (ဂ) သပိတ်လတ်အောက် ငယ်သော သပိတ် ဟူ၍ သုံးလုံး။ သပိတ်ငယ်သည်လည်း (က) သပိတ်ငယ် ထက် ကြီးသော သပိတ်၊ (ခ) သပိတ်ငယ်၊ (ဂ) သပိတ် ငယ်အောက် ငယ်သော သပိတ် ဟူ၍ သုံးလုံးစီရှိကြသည်။ သို့ဖြစ်၍ သပိတ်သည် ကိုးလုံးရှိသည်။

အရွယ် ပမာဏအားဖြင့် ချက်ပြီး ထမင်းဟင်း အစုံ သုံး စလယ် မလျော့ မပို ဝင်ဆံ့သောသပိတ်သည် သပိတ်ငယ် မည်သည်။ ဤအချင့်ကို မူတည်၍ ချက်ပြီး ထမင်း ဟင်း အစုံ သုံးစလယ် ထည့်သောအခါ လျော့ ဟောက်နေလျှင် အငယ်ထက် ကြီးသော သပိတ်၊ ပိုမောက်နေလျှင် အငယ့် အောက် ငယ်သော သပိတ်မည်သည်။

ချက်ပြီး ထမင်းဟင်း အစုံ တပြည့်တခွက် (သုံးခွက်) မလျော့ မပို ဝင်ဆံ့သော သပိတ်သည် သပိတ်လတ် မည် သည်။ ဤအချင့်ကို မူတည်၍ ဤချက်ပြီး ထမင်းဟင်း အစုံ ထည့်သောအခါ လျော့ ဟောက်နေလျှင် အလတ် ထက် ကြီးသော သပိတ်၊ ပိုမောက်နေလျှင် အလတ် အောက် ငယ်သော သပိတ် မည်သည်။

ချက်ပြီး ထမင်း ဟင်း အစုံ သုံးပြည်ဝင်ဆံ့သော သပိတ် သည် သပိတ်ကြီး မည်သည်။ ဤအချင့်ကို မူတည်၍ ချက် ပြီး ထမင်းဟင်း အစုံ သုံးပြည်ထည့်သော အခါ လျော့ ဟောက် နေလျှင် အကြီးထက် ကြီးသော သပိတ်၊ ပိုမောက် နေလျှင် အကြီးအောက် ငယ်သောသပိတ် မည်သည်။

သပိတ်ကိုးလုံး အနက် အငယ်ဆုံး (အငယ့်အောက် အငယ်) နှင့် အကြီးဆုံး (အကြီးထက် အကြီး) သပိတ် နှစ်လုံးသည် အဓိဋ္ဌာန်၊ ဝိကပ္ပနာ ပြုခွင့်မရှိသောကြောင့် သပိတ်အရာမဝင်၊သာမန်ခွက်အဖြစ်ဖြင့်သာသုံးစွဲအပ်သည်။

သပိတ်သည် အမျိုးအစား အားဖြင့် မြေသပိတ်၊ သံ သပိတ် နှစ်မျိုးသာ အပ်သည်။ အရောင်အဆင်းမှာ ဖြူ ကြောင်ကြောင် အရောင်အဆင်း မရှိစေပဲ ရဟန်းတို့အား လျောက်ပတ်သော ညိုမှောင်မှောင် အရောင်အဆင်း ရှိစေ ရမည်။ ဤရည်ရွယ်ချက်ဖြင့် မြေသပိတ်ကို နှစ်ကြိမ် မီးဖုတ် ၍ သံသပိတ်ကို ငါးကြိမ် မီးဖုတ်ရမည် ဟု အဋ္ဌကထာတို့၌ ဆိုသည်။

**သပိတ်ကျင်းမြို့။** ။သပိတ်ကျင်း မြို့သည် မြန်မာနိုင်ငံ အထက်ပိုင်း မန္တလေးတိုင်း၊ မန္တလေးခရိုင်တွင် ပါဝင်သော မိုးကုတ်ခရိုင်ခွဲမှ သပိတ်ကျင်းမြို့နယ်၏ မြို့ပိုင်ရုံးစိုက်ရာမြို့ဖြစ် သည်။ ရေဝတီမြစ်၏ ဝဲဖက် ကမ်းပေါ်၌ ရှိသော သဘော ဆိပ်မြို့ တမြို့လည်း ဖြစ်သည်။

မိုးပါး ရေရှား ရပ်ဝန်း ဒေသ၏ မြို့တမြို့ ဖြစ်၍ ရာသီ ဥတု ပူပြင်းခြောက်သွေ့သည်။ တနှစ်ပတ်လုံး မိုးရေချိန် ၄၄ လက်မခန့်သာ ရရှိသည်။ ကချင်ပြည်နယ်၊ ရှမ်းပြည်မြောက် ပိုင်း ဒေသများနှင့် နီးစပ်၍ ကူးလူးဆက်ဆံမှု များပြား သော်လည်း မြို့ပေါ်တွင် နေထိုင်ကြသူများသည် မြန်မာ လူမျိုးများသာလျှင် အများစု ဖြစ်သည်။ လူနေအိမ်ခြေ နည်းပါးသော မြို့ကလေးတမြို့ ဖြစ်၍ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၅၁၄ ယောက်မျှသာ ရှိလေသည်။

ဗြိတိသျှအစိုးရတို့ အထက် မြန်မာနိုင်ငံကို သိမ်းပိုက်ပြီးစ အခါက သပိတ်ကျင်းမြို့သည် မိုးကုတ် စသော ပတ္တမြား မြေ ဒေသသို့ မြစ်ကြောင်းခရီးဖက်မှ ဝင်ပေါက် ထွက်ပေါက် တခု ဖြစ်ခဲ့သည်။ ထိုကြောင့် ထိုမြို့တွင် ပတ္တမြားမြေကို စောင့်ရှောက်ရန် စစ်တပ်နှင့် စစ်ပုလိပ်များ ထားရှိခဲ့၍ ထိုစဥ်က ယခုထက် လူနေအိမ်ခြေ ပိုမို စည်ကားခဲ့သည်။

သပိတ်ကျင်းမြို့၏ လမ်းပန်း ဆက်သွယ်ရေးသည် မည့် ဖျင်းလှချေ။ မန္တလေးမြို့နှင့် ရေကြောင်းအားဖြင့် ၇၇ မိုင် မျှသာ ဝေးကွာ၍ မန္တလေး–ဗန်းမော်–မြစ်ကြီးနား အစုန်

အဆန် သွားလာနေသော ပြည်တွင်း ရေကြောင်းသယ်ယူပို့ဆောင်ရေး အဖွဲ့ပိုင် သင်္ဘောကြီးသည် တပတ်လျှင် နှစ်ကြိမ် သပိတ်ကျင်းမြို့၌ ဆိုက်ကပ်သည်။ ထိုပြင် မန္တလေးနှင့် သပိတ်ကျင်း အစုန်အဆန် သွားလာနေသော ကြားကူးတို့ သင်္ဘောကလေးများလည်း ရှိသေးသည်။ ကုန်းလမ်းခရီးအားဖြင့် ပတ္တမြားမြေ မိုးကုတ်မြို့နှင့် မော်တော်ကားလမ်းဖြင့် မိုင် ၆၀ မျှသာ ကွာဝေး၍ ယင်းမှတဆင့် မိုးမိတ်နှင့် ဗန်းမော်၊ မြစ်ကြီးနား စသည့် ကချင်ပြည်နယ်ဖက်သို့၎င်း၊ ကျောက်မဲ၊ သီပေါစသည့် ရှမ်းပြည်မြောက်ပိုင်းသို့၎င်း ဆက်လက်သွားလာနိုင်သည်။

မူလက သပိတ်ကျင်းမြို့သည် ပတ္တမြားမြေ ခရိုင်အတွင်း ပါဝင်သော သပိတ်ကျင်း ခရိုင်ခွဲ၏ နယ်ပိုင်ရုံးစိုက်ရာ မြို့ဖြစ်သည်။ နောင်အခါ သပိတ်ကျင်း ခရိုင်ခွဲကို မြို့နယ်အဖြစ်ပြောင်း၍ ကသာခရိုင်အတွင်း ထည့်သွင်းခဲ့သည်။ ထိုနောက်တွင် သပိတ်ကျင်းသည် ရွှေဘိုခရိုင်၏ မြို့နယ်တခုဖြစ်ခဲ့ရာမှ ၁၉၆၅ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့မှ အစပြု၍ မိုးကုတ်မြို့နယ်နှင့် အတူ မန္တလေးခရိုင်အတွင်း သွတ်သွင်း ခံခဲ့ရလေသည်။

မြို့နယ် မြေမျက်နှာသွင်ပြင်သည် ညီညာ ပြန့်ပြူးခြင်း မရှိပဲ အရှေ့ဖက်ရှိ မိုးကုတ်မြို့နယ်ဖက်သို့ တဖြည်းဖြည်း ကုန်းမြင့် သွားလေသည်။ မြို့နယ်၏ အောက်ခံ မြေသည်လည်း များသောအားဖြင့် ထုံးကျောက်မြေ ဖြစ်သည်။

သပိတ်ကျင်းမြို့နယ်၏ အဓိက လုပ်ငန်းသည် ဆန်စပါး စိုက်ပျိုးခြင်းဖြစ်၍ တောင်ယာ စံနစ်ဖြင့် လုပ်ကိုင်ခြင်း များပြားလေသည်။ အင်းလုပ်ငန်းများကိုလည်း လုပ်ကိုင်ကြသည်။ မြို့နယ်အတွင်း အဖိုးတန် သစ်တောများ မရှိချေ။ ဝါးပင်နှင့် ထနောင်းပင်များကိုသာ များသောအားဖြင့် တွေ့ရလေသည်။ မိုးကုတ်မြို့နယ်နှင့် နီးစပ်သော်လည်း အဖိုးတန် ကျောက်မျက်ရတနာများ ပြောပလောက်အောင် သပိတ်ကျင်းမြို့နယ်အတွင်းမှ မထွက်ရှိသေးချေ။

သပိတ်ကျင်းမြို့နယ်၏ ဧရိယာသည် ၉၉၅ စတုရန်းမိုင် ကျယ်ဝန်း၍ သူကြီးပိုင်နယ် ၂၄ နယ်ပါဝင်သည်။ မြို့နယ်တခုလုံး၏ လူဦးရေသည် ၁၉၇၁ ခုနှစ် ခန့်မှန်းခြေအရ ၂၄,၀၀၀ ယောက် ဖြစ်၍ ဗုဒ္ဓဝါဒီ မြန်မာ လူတို့မျိုးတို့သည် အများစု ဖြစ်လေသည်။

**သပိတ်မှောက်ခြင်း။** ။သပိတ်မှောက်ခြင်း ဟူသည်မှာ မဆက်ဆံပဲ နေခြင်း၊ ပ ထားခြင်း၊ ကြဉ်ထားခြင်း၊ ဖယ်ထားခြင်း ဟူ၍ အဓိပ္ပာယ်ရသည်။ သပိတ်သည် ဘုရားရှင်နှင့်တကွ တပည့်သံဃာတော် အရှင်မြတ်တို့၏ ပရိဘောဂ ပစ္စည်းတရပ်ဖြစ်သည်။သပိတ်မှောက်သည် ဟူသော အသုံးအနှုန်းသည် ဘုရားရှင် လက်ထက်တော်ကပင် စတင်ခဲ့သည်။ စူဠဝါ ပါဠိတော်တွင် ဘုရားရှင်သည် လိစ္ဆဝီ မင်းသားအား ရဟန်း သံဃာအပေါင်းတို့က သပိတ်မှောက်စေရန် ခွင့်ပြုတော်မူခဲ့ကြောင်း အာဏာဒေသနာတော် ပါရှိသည်။

ထိုသို့ ဘုရားရှင်ကိုယ်တော်မြတ်က သပိတ်မှောက်စေရန် ခွင့်ပြုတော်မူခဲ့ရင်းအကြောင်းမှာ ဤသို့တည်း။

ဘုရားရှင်သည် ဝေသာလီပြည်၊ မဟာဝန်ဘောဂ္ဂ သီတင်း သုံးတော်မူစဉ် ဝဍ္ဍမည်သော လိစ္ဆဝီမင်းသည် စဉ်းစားဆင်ခြင်ဥာဏ် ကင်းမဲ့သူ ဖြစ်သည်နှင့် အညီ ဆဗ္ဗဂ္ဂီ ရဟန်းတို့၏ ဂုံးချောစကားကို လိုက်နာ၍ မလ္လာမင်း၏ သားအရှင်ဒဗ္ဗ ရဟန်းအား ပျက်စီးစိမ့်သောငှာ မိမိ၏ မယားနှင့် အယုတ်တမာ စွပ်စွဲ၍ ဘုရားရှင်အား လျှောက်ထားသည်။

ထိုအခါ ဘုရားရှင်သည် သံဃာအားလုံးအား စည်းဝေးစေ၍ ကိုယ်တော်တိုင် စစ်ဆေးမေးမြန်းလတ်သော် ရှင်ဒဗ္ဗတွင် ထိုကိစ္စနှင့်စပ်လျဉ်း၍ မှုမှန်တစေ့မျှ ပြစ်မှုမရှိကြောင်း ထင်ရှားလေသည်။ ထိုကြောင့် ဘုရားရှင်က

(၁) ရဟန်းတော်တို့အား ပစ္စည်းလေးပါး မရစိမ့်သောငှာ လှုံ့လပြုခြင်း၊

(၂) ရဟန်းတော်တို့အား ဘေးအန္တရာယ် ဖြစ်စေရန်၊ မတိုးပွားစေရန် လှုံ့လပြုခြင်း၊

(၃) ရဟန်းတော်တို့အား ဤနေရာ၊ ထိုနေရာတို့၌ မနေရစိမ့်သောငှာ လှုံ့လပြုခြင်း၊

(၄) ရဟန်းတော်တို့ကို ဆဲရေးခြင်း ဆယ်ပါးတို့ဖြင့် ဆဲရေး ရေရွတ်ခြင်း၊

(၅) ရဟန်းတပါးနှင့်တပါး စိတ်ဝမ်းကွဲပြားအောင် လှုံ့လ ပြုခြင်း၊

(၆) ဘုရားရှင်၏ ကျေးဇူးမဲ့ကို ကဲ့ရဲ့ ပြောဆိုခြင်း၊

(၇) တရားတော်၏ ကျေးဇူးမဲ့ကို ကဲ့ရဲ့ ပြောဆိုခြင်း၊

(၈) သံဃာတော်၏ ကျေးဇူးမဲ့ကို ကဲ့ရဲ့ပြောဆိုခြင်း၊

အထက်ဆိုခဲ့သော အချက်ရှစ်ချက်တွင် တချက်ချက်နှင့် ပြည့်စုံစွာ လှုံ့လအားထုတ်ပြုလုပ်သူ ဥပါသကာ၊ သို့မဟုတ် ဥပါသကာအား ပတ္တနိက္ကုဇ္ဇန သပိတ်မှောက်ကံ ပြုခြင်းငှာ ငါခွင့်ပြုတော်မူသည်ဟု စူဠဝါပါဠိတော်၌ လာရှိသည်။

ထိုအခါက သပိတ်မှောက်သည် ဆိုရာ၌ သပိတ်ကို အောက်သို့ မျက်နှာထားသော အားဖြင့် ပြုမူသည် မဟုတ်။ သပိတ်မှောက်ခြင်းခံရသော ဒါယကာ ယောကျ်ား ဒါယိကာ မိန်းမတို့ လှူဒါန်းသော လှူဖွယ်ဝတ္ထု ပစ္စည်းလေးပါးတို့ကို ရဟန်းတိုင်းက မသုံးဆောင်ကြခြင်း ပေ တည်း။ ဇမ္ဗူဒီပါရှိ အခြားသော ရဟန်းတို့အားလည်း မသုံးစွဲ မသုံးဆောင်ကြရန် တိုက်တွန်း နှိုးဆော်ကြသည်။ ထိုသို့ ပြုရခြင်းကား အကျင့်သိက္ခာနှင့်ပြည့်စုံသော ရဟန်းကောင်း ရဟန်းမြတ်ကို အပြစ်ပြောဆိုသည့် ဒါယကာ ဒါယိ

ကာမတို့ နောင်အခါ သတိတရား ရ၍ လိမ်မာယဉ်ကျေးလာကြရန် အကျိုးကို မျှော်ကိုးဆောင်ရွက်ခြင်း ဖြစ်ပေသည်။ ထိုဒါယကာ ဒါယိကာမတို့သည် နောင်တ တရားရကာ လိမ်မာ ယဉ်ကျေး လာပြီးလျှင် သုံးကြိမ်တိုင်တိုင် တောင်းပန်တိုးလျှိုးလာပါက သပိတ်လှန်ခြင်းကို ဆောင်ရွက်ကြရမည်။ တောင်းပန်တိုးလျှိုးခြင်း မပြုလာသေးပါက ဆိုခဲ့သော ဒါယကာ ဒါယိကာမတို့၏လှူဖွယ်ဝတ္ထု ပစ္စည်းလေးပါးတို့ကို မသုံးဆောင်အပ်ဟူ၍ဘုရားရှင်ကပညတ်တော်မူခဲ့လေသည်။

ဤသို့ဖြင့် သပိတ်မှောက်ခြင်း ကိစ္စသည် သာသနာရေးကိစ္စတရပ် ဖြစ်ခဲ့သော်လည်း ယခုခေတ်တွင်မူ နိုင်ငံရေးလောက၌ ခေတ်စားနေသော နိုင်ငံရေး လက်နက်တရပ် ဖြစ်နေပေသည်။ အလုပ်သမားနှင့် အလုပ်ရှင်၊ ကျောင်းသားနှင့် ကျောင်းအာဏာပိုင်များ ပဋိပက္ခ အရေးများတွင် သပိတ်မှောက်ခြင်းတည်းဟူသော လက်နက်ကို မကြာခဏ စွဲကိုင် အသုံးပြုကြသည်။ ထို အစဉ်အလာဂါထား အနောက်နိုင်ငံများမှ ကူးစက်လာသော အစဉ် အလာ တရပ် ဖြစ်လေသည်။

အနောက် နိုင်ငံများတွင် သပိတ်မှောက်ခြင်းကို ဗွိုင်းကော့ လုပ်သည်ဟု ခေါ်ဆိုသည်။ ဗွိုင်းကော့ လုပ်သည်ဟု ဆိုလျှင် အများသဘောသို့ မလိုက်လျော၊ အများသဘောနှင့် မကိုက်ညီပဲ ဖီလာကန့်လန့်ပြုသူအား လူအများသဘောသို့ လိုက်လျောသည်အထိ အဆက်အဆံ မပြုပဲ နေကြခြင်း ဖြစ်သည်။

အင်္ဂလိပ် ဘာသာဖြင့် ဗွိုင်းကော့ ဟူသော ဝေါဟာရသည် အိုင်ယာလန်ပြည်မှ စတင်ပေါ်ပေါက်ခဲ့၍၊ ကပ္ပိတန်ချားလ်စ် ကန်နင်ဂမ် ဗွိုင်းကော့၏ အမည်ကို အစွဲပြု ခေါ်တွင်လာခြင်း ဖြစ်သည်။ ကပ္ပိတန် ဗွိုင်းကော့သည် လော့အန်းအမည်ရှိ မူးချို မတ်နွယ် တဦး၏ နယ်မြေကိုယ်စားလှယ်ဖြစ်သည်။ ၁၈၈၀ ပြည့်နှစ်တွင် ဗွိုင်းကော့သည် လယ်မြေသီးစားသမားများအပေါ် အတင်းအကြပ် အခွန်ကောက်ခံခြင်း၊ မြေယာ အငှားချထားရေး၌ နိုင့်ထက်စီးနင်း ဆောင်ရွက်ခြင်းတို့ကြောင့် မြေငှားများသည် မခံ မရပ်နိုင်ပဲ မြေပိုင်ရှင်၊ သို့မဟုတ် ကိုယ်စားလှယ်အား လုံးဝ အဆက်အဆံ မပြုပဲ ဝိုင်းပယ် ထားကြရန် ဆုံးဖြတ်ကြသည်။ ဗွိုင်းကော့က အလျှော့ မပေးမခြင်း မြေငှားတို့သည် သွေးစည်း ညီညွတ်ကာ ဗွိုင်းကော့အား ဝိုင်းပယ်ထားသည်သာမက ဗွိုင်းကော့၏လုပ်ငန်းများကို အနှောက်အရှက် ပေးခြင်း၊ ဗွိုင်းကော့အား ခြိမ်းခြောက်ခြင်းများပြုလုပ်ကြလေရာ နောက်ဆုံးတွင် ဗွိုင်းကော့သည် လက်လျှော့ အရှုံးပေး၍ ထိုနယ်မှထွက်ခွာသွားရလေသည်။

ထိုနောက်တွင် အိုင်ယာလန်ပြည်တွင် အမျိုးသားရေးတိုက်ပွဲအမျိုးမျိုး၌ မဆက်ဆံရေး၊ ဝိုင်းပယ်ရေး လမ်းစဉ်သည် အလွန်တွင်ကျယ် ခေတ်စားလာသည်။ ထိုအခါ ထိုလမ်းစဉ်ဖြင့် ပဌမဆုံး လက်တည့်စမ်း ခံရသူ ကပ္ပိတန် ဗွိုင်းကော့ကို အစွဲပြု၍ "ဗွိုင်းကော့" လုပ်သည်ဟု ဆို စမှတ် ပြုကြသည်။ ထိုဝေါဟာရသည် အခြားနိုင်ငံများ၌ပါ အသုံးအစွဲများလာသည်။မြန်မာနိုင်ငံတွင်မူထိုဝေါဟာရကို သပိတ်မှောက်သည် ဟူ၍ မြန်မာမှုပြုလိုက်ကြသည်။

နောင်အခါတွင် အထူးသဖြင့် အလုပ်ရှင်နှင့် အလုပ်သမား၊ ကျောင်းအာဏာပိုင်နှင့် ကျောင်းသားများအရေးတို့တွင် ထိုလမ်းစဉ်ကို ကျင့်သုံးလာကြသည်။ အလုပ်သမားများသည် အလုပ်ရှင်များထံမှ မိမိတို့ လိုလားချက်များ ရရှိစေရန် အလုပ်မဆင်းပဲ သပိတ်မှောက်ကြသည်။ကျောင်းသားများသည် ကျောင်းအာဏာပိုင်များထံမှ မိမိတို့ လိုလားချက်များ ရရှိရန် ကျောင်းမတက်ပဲ သပိတ်မှောက်ကြသည်။ ထို သပိတ်မှောက်လမ်းစဉ်ကို ကျင့်သုံးမှုများ များပြားလာသဖြင့် သပိတ် မှောက်ခြင်းကို အက်ဥပဒေဖြင့် တားမြစ်ခဲ့သည်။ ထိုအက်ဥပဒေမျိုးကို မြန်မာနိုင်ငံ၌ ၁၉၂၂ ခုနှစ်တွင် ထုတ်ပြန်ခဲ့လေသည်။

သပိတ်မှောက် လမ်းစဉ်သည် မိမိတို့အလိုရှိရာတောင်းဆိုမှု၌ တောင်းဆိုချက်များသည် မှုမှန်၍ တောင်းဆိုသူများသည် စည်းလုံး ညီညွတ်ပါက အလွန် ထိရောက်သော လက်နက် ဖြစ်ပေသည်။ အလုပ်သမားများသပိတ်မှောက်



ပဌမဆုံးလက်တည့်စမ်း သပိတ်မှောက် (ဗွိုင်းကော့လုပ်) ခံခဲ့ရသူ ကပ္ပိတန်ဗွိုင်းကော့နှင့် အဖွဲ့သားများ



၁၃၀၀ ပြည့် ရေနံမြေအရေးတော်ပုံခေတ်က အကြမ်းမဖက် သပိတ်တားနေကြသော သပိတ်မှောက်မြန်မာအမျိုးသမီးများ

၍ အလုပ်မဆင်းပဲ နေသဖြင့် အလုပ်ရှင်တို့၏ အလုပ်စက်ယန္တရားများ မလည်နိုင်တော့ပဲ ရပ်တန့် နေခဲ့ကြရာ လုပ်ငန်းထိခိုက် နစ်နာဆုံးရှုံးမှုများစွာ ဖြစ်စေလေသည်။

မြန်မာနိုင်ငံတွင် ၁၉၂၀ ပြည့်နှစ်၌ ရန်ကုန်ကောလိပ် ပညာရေး သပိတ်မှောက်ခြင်းမှအစပြု၍ သပိတ်မှောက်လမ်းစဉ် နွှတ်စားခဲ့သည်။ ထိုသပိတ်အရေးသည် တမျိုးသားလုံး၏ မျိုးချစ်စိတ်ကို နှိုးဆွပေးကာ စည်းလုံး ညီညွတ်မှုကို ရရှိစေခဲ့သည်။ မြန်မာ နိုင်ငံ၌ ပေါ်ပေါက်ခဲ့သည့် ဖော်ပြသင့်ဖော်ပြထိုက်သော အခြား သပိတ်မှောက်ခြင်းများမှာ ၁၉၃၆ ခုနှစ် ဖေဖော်ဝါရီလ ရန်ကုန်တက္ကသိုလ်မှပင် အစပြုခဲ့၍ မြန်မာတနိုင်ငံလုံးရှိ ကျောင်းများသို့ပါ ကူးစက်သွားသော ကျောင်းသားသပိတ်၊ ၁၉၃၈ ခုနှစ် ဒီဇင်ဘာလတွင် ရန်ကုန်တက္ကသိုလ်မှ အစပြုကာ မြန်မာတနိုင်ငံလုံးသို့ ကူးစက်သွားသော ကျောင်းသားသပိတ်၊ ထိုသပိတ်နှင့် ရှေ့ဆင့်နောက်ဆင့်ပေါ်ပေါက်ခဲ့သော ရေနံမြေသပိတ်၊ အလုပ်ရုံ စက်ရုံများသပိတ်၊ ဒုတိယကမ္ဘာစစ်ပြီးခေတ် မြန်မာ့လွတ်လပ်ရေး ကြိုးပမ်းနေချိန်တွင် ပုလိပ်(ရဲ)အဖွဲ့နှင့် အစိုးရအမှုထမ်းပေါင်းစုံ သပိတ်ကြီးတို့ကား မြန်မာနိုင်ငံ သမိုင်းတွင် မှတ်တမ်းတင်လောက်သော သပိတ်မှောက်ခြင်းများ ဖြစ်ပေသည်။ နိုင်ငံလူထု နိုးကြားရေး၊ အမျိုးသားစိတ် ပြင်းပြရေးနှင့် မြန်မာ့လွတ်လပ်ရေးအတွက် ကြီးမားသော အထောက်အကူများကိုပေးခဲ့သည်။

စီးပွားရေး သပိတ်မှောက်ခြင်း များလည်း ရှိသေးသည်။ ထိုသို့ သပိတ်မှောက်ခြင်းမျိုးမှာ တနိုင်ငံထုတ်ပစ္စည်း အသုံးအဆောင်များကို တနိုင်ငံက အသုံးမပြုပဲ နေခြင်းဖြစ်သည်။ ပုံစံအားဖြင့် မြန်မာနိုင်ငံတွင် ဝံသာနုခေတ်က မျိုးချစ်စိတ်တက်ကြွနေသော တိုင်းရင်းသူ တိုင်းရင်းသားများသည် နိုင်ငံခြားပစ္စည်းများကို မသုံးစွဲကြပဲ တိုင်းရင်းဖြစ် ပင်နီချောနှင့် ယောထမိ၊ ယောလုံချီတို့ကို ဝတ်ဆင်ကြသည်။ အိန္ဒိယသည် ကိုယ်ပိုင်အုပ်ချုပ်ရေး ရနိုင်ရန် ဆန္ဒပြသောအားဖြင့် ဗြိတိသျှ ကုန်ပစ္စည်းများကို သပိတ်မှောက်ကာ တိုင်းရင်းဖြစ်များကိုသာ သုံးစွဲ ဝတ်ဆင် ခဲ့ကြသည်။ ဒုတိယ ကမ္ဘာစစ်ခေတ် မတိုင်မီက အမေရိကန် အမျိုးသမီးများသည် ဂျပန်ပိုးဖြင့် ပြုလုပ်သော ခြေအိတ်များကို မသုံးစွဲပဲ သပိတ် မှောက်ခဲ့ကြသည်။ အမေရိကန် လွတ်လပ်ရေးစစ်ပွဲကို အစပျိုးခဲ့သော ဗော့စတွန်မြို့မှ လဖက်ခြောက် သွန်ပစ်မှုကြီးသည်လည်း ဗြိတိသျှ ကုန်ပစ္စည်းများကို သပိတ်မှောက်သည့် သဘောတရားပင် ဖြစ်လေသည်။

**သပိတ်လွယ်ငှက်။** ။သပိတ်လွယ် ငှက်သည် ကျီးကန်းမျိုးစုတွင် ပါဝင်သည်။ ပါဏဗေဒအမည်အားဖြင့် ယင်းကို ကော့စိုင်ကပ် စော်လားရစ်ဟု ခေါ်၍ တာဒီဒီးမျိုးရင်းတွင် ပါဝင်သည်။

သပိတ်လွယ်ငှက်သည် အလျား ကိုးလက်မခန့်ရှိသည်။ ငှက်မသည်ငှက်ဖိုထက်ပို၍ အသွေးအရောင်မှဲ့ခြောက်သည်။ သပိတ်လွယ် ငှက်ဖိုများသည် သီချင်းဆိုကောင်းသည်။ ရန်သူကိုမြင်လျှင် ခပ်ရှည်ရှည်ဆွဲ၍ အချက် ပေးတတ်ကြသည်။ ယင်းတို့ရှိကြောင်း သိစေရန် တခါတရံ ကျယ်လောင်စွာ အော်မြည်တတ်သည်။ နံနက်ခင်းနှင့် ညနေခင်းများတွင် သစ်ပင်များပေါ်မှ တေးဆိုနေကြသည်မှာ သာယာနာပျော်ဖွယ်ရှိလှသည်။ သပိတ်လွယ် ငှက်များသည် မကြာခဏပင် အတောင်ကို အောက်သို့နှိမ့်ချလိုက်၊ ယပ်တောင်သဖွယ် ဖြန့်လိုက်ပိတ်လိုက် ပြုလုပ်တတ်သည်။

သပိတ်လွယ်ငှက်များကို မြန်မာနိုင်ငံအရပ်ရပ်၌ တွေ့ကြရသည်။များသောအားဖြင့် စုံတွဲနေထိုင်တတ်ကြသည်။ လူသူ နေထိုင်ရာ အရပ်များ၌သာ တွေ့ရသည်မဟုတ်၊ ကျွန်းတော များထဲတွင်လည်း တွေ့ကြရသည်။ ဥယျာဉ်ချုံတောစသည်ဖြင့် နေရာမရွေး တွေ့ရသော်လည်း စိုစွတ်သော သစ်တောနက်ကြီးများနှင့် လယ်ကွင်းပြင်များတွင် မနေကြချေ။ သပိတ်လွယ်ငှက်များသည် အစာကို မြေပြင်၌ ရှာဖွေစားသောက်လေ့ရှိ၍ ပရွက်ဆိတ်၊ ချေးထိုးပိုးနှင့် ပိုးမွှားကလေးများကို စားကြသည်။ တခါတရံ အသီးအရွက်နှင့် တီကောင်များကိုလည်း စားတတ်ကြသည်။



မိုးဥတုတွင် တွေ့မြင်ရလေ့ရှိသည့် သပိတ်လွယ်ငှက်

သပိတ်လွယ်ငှက်သည် အသိုက်ကို အိမ်ခေါင်မိုး၊ သစ်ခေါင်း၊ ကမ်းပါးနှင့် ထရံများအကြား၊ ဝါးငုတ်တိုများထဲတွင် လုပ်ကြသည်။ အသိုက်ပြုလုပ်ရာတွင် သစ်မြစ်၊ မြက်၊ အမွေး အတောင်များနှင့် ပြုလုပ်ကြသည်။ အသိုက်များမှာ ပွယောင်းယောင်းရှိသည်။ သို့မဟုတ် အပြားကလေး သာသာပင်ရှိသည်။ အသိုက်ကို ဆောက်လုပ်ရာ၌ ခပ်ကြမ်းကြမ်းနှင့် ရောရိရောရဲ ဆောက်လုပ် ကြသည်။ သပ်သပ်ယပ်ယပ် မဆောက်လုပ်တတ်ကြချေ။

သပိတ်လွယ် ငှက်တို့သည် မတ်လမှ ဇူလိုင်လအတွင်း သားပေါက်ကြသည်။ တမြုံလျှင် သုံးဥမှ ငါးဥအထိ အုတတ်ကြသည်။ ဥသည် အဖျားရှူးသည်။ ဥခွံညက်ချောမာကြောသည်။ အစိမ်းရောင်တွင် နီညိုရောင် အပြောက်များ အရင်းဖက်၌ စု၍ပါရှိသည်။ ဥ၏ ပျမ်းမျှအလျားမှာ ၀.၇ လက်မနှင့် ပြက် ၀.၆၆ လက်မခန့်ရှိသည်။

သပိတ်လွယ်ငှက်ကို အရှေ့ဖက် နိုင်ငံများ၌ အနှံ့အပြား တွေ့ရသည်။မြန်မာနိုင်ငံတွင် လွင်ပြင်များမှအစ တောင်ပေါ်ဒေသများပါမကျန် အရပ်ရပ်၌ နေထိုင် ကျက်စားကြသည်။ မလေး သပိတ်လွယ် ငှက်မျိုးကို တနင်္သာရီ တောင်ပိုင်း၌သာ တွေ့ရသည်။

သပိတ်လွယ် ငှက်မျိုးတွင် ငှက်အမျိုးမျိုးပါဝင်ရာ ထင်ရှားသော အမျိုးများမှာ ငှက်ကျား၊ ငှက်စပ်၊ သို့မဟုတ် ငှက်အောင်မခေါ် ငှက်တော်ပြာ၊ နဖားကြီး၊ အမြီးဝိုင်း စသည်တို့ ဖြစ်ကြသည်။

သပျက်ပင်။ ။စပျစ်ပင်—ရှု။

**သပြုမင့်။** ။သပြုပင်ကို ရုက္ခဗေဒအမည်အားဖြင့် ဒီလင်းနီးယား အင်ဒီကားဟု ခေါ်သည်။ဒီလင်းနီးအေးစီအီးမျိုးရင်းတွင်ပါဝင်၍ လင်းလျှော့(လင်းရှော)၊ စင်ပြွမ်းတို့နှင့် မျိုးရင်းတူ ဖြစ်သည်။

-သပြုပင်သည် အမြင့် ပေ ၃၀ မှ ၈၀ အထိ ရှိတတ်၍ အပင်ကြီးမျိုးဖြစ်သည်။အရွက်မပြတ်ပဲ အမြဲစိမ်းလန်းနေသည်။ ပူအိုက်စိုစွတ်သော ရာသီဥတုမျိုးကို နှစ်သက်သဖြင့် သီဟိုဠ်ကျွန်းနှင့် အာရှတိုက် အပူပိုင်းဒေသများ၌ မူလတောင်ပေါက်ရောက်ခဲ့သည်။ ယခုအခါ ဟိမဝန္တာအရှေ့ပိုင်းတောင်ခြေတလျှောက်၌ရင်း၊ အာသံပြည်နယ်နှင့် မြန်မာနိုင်ငံရှိ မိုးများသောဒေသ သစ်တောများ၌ရင်း ပေါက်ရောက်သည်ကို တွေ့ရသည်။ အထူးသဖြင့် မြစ်ချောင်းကမ်းပါးအနီး၌ ပေါက်ရောက်သည်။ သပြုပင်ကို ခြံဥယျာဉ်များ၌လည်း အလှစိုက်ပျိုးကြသည်။

သပြုပင်၏ ရွက်အုပ်သည် ဝိုင်းနေ၍ အရွက်များသည် အကိုင်းများတွင် စုရုံး၍ ထွက်ကြသည်။ အရင်းကားသည့်

လုံသွားပုံသဏ္ဌာန် ရှိသော အရွက်များသည် ရှစ်လက်မမှ ၁၄ လက်မအထိ ရှည်လျား၍ နှစ်လက်မမှ လေးလက်မအထိ ပြက်ကျယ်သည်။ အရွက်၏ နှုတ်ခမ်းများသည် အတော်အတန် ကျဲသော လှသွားကဲ့သို့ ဖြစ်နေသည်။ အရွက်တွင် တစုံနှင့်တစုံ နီးကပ်စွာ ယှဉ်ပြိုင်၍ ထင်ရှားစွာ ပေါ်လွင်နေသော အကြောများကြောင့် အရွက်၏ မျက်နှာပြင်သည် အကြောများအလိုက် အမြောင်းကလေးများ ထသကဲ့သို့ ရှိနေသဖြင့် အရွက်သည် တွန့်ရှုံ့နေသယောင် ထင်ရသည်။ အရွက်၏ ထက်အောက် မျက်နှာပြင်တွင် အမွေးများရှိလေသည်။

တပွင့်ချင်း ပွင့်သော အဖြူရောင် ပန်းများသည် ငါးလက်မမှ ရှစ်လက်မအထိ ကြီးမားကြ၍ ပွင့်ချပ်များသည်လည်း ကြီးမားသည့်ပြင် ထူထဲသည်။ အပွင့်များသည် သင်းပျံ့ပျံ့ မွှေးလေသည်။

သပြုပင်သည် အသီးများသည်။ သပြုသီးများသည် အချင်း ၃ သုံးလက်မမှ ငါးလက်မခန့်အထိ ရှိသည်။ အပွင့်၏ ထူထဲသော ပွင့်ဖတ်များသည် ကြီးရင့်လာသောအခါ စိမ်းလာ၍ အသားထူသော အဖတ်များ ဖြစ်လာသည်။ ထိုအဖတ်များသည် အစေ့များ ပါသော အိမ်ကို အုံ့ဖွဲ့ကာ ကြီးထွားလာပြီးလျှင် အသီး ဖြစ်လာသည်။ အစေ့များသည် ကျောက်ကပ်သဏ္ဌာန်ရှိ၍ သေးငယ်ကြရာ တအောင်စလျှင် အစေ့ ၁,၀၀၀ မှ ၁,၅၀၀ ခန့်အထိ ပါဝင်နိုင်သည်။

အတော်အတန် ရင့်သော အသီးများမှ အဖတ်များကို ခွာယူ၍ အချဉ်ဟင်း ချက်စားနိုင်သည်။ အချို့ သုပ်၍လည်း စားကြသည်။ မြန်မာ ဆေးကျမ်းများ အလိုအရ သပြုသီးသည် ချဉ်ဖန်ရသာ ရှိသည်။ လေ သလိပ်ကို နိုင်သည်။ သွေး သည်းခြေကို ပျက်စေတတ်သည်။ သုက်ကို ခန်းခြောက် စေတတ်သည်ဟု ဆိုလေသည်။

အိန္ဒိယ ဆေးကျမ်းများ အလိုအရ ဖျားနာသူ၊ ချောင်းဆိုးသူများကို သပြုသီးမှည့် အခွံ၏ အရည်ကို သကြားနှင့် ဖျော်ပြီးလျှင် အဖျော် ယမကာတမျိုး အဖြစ် တိုက်ပေးနိုင်သည် ဟုဆိုသည်။ သို့သော် များလွန်းလျှင် ဝမ်းသက်တတ်သည်။ ထိုပြင် အသီးမှည့်၏ အခွံရည်ကို ကျောက်ကြော၊ ယို စသည်ဖြင့် လုပ်ကိုင်စားသုံးကြသည်။ အခေါက်နှင့် အရွက်များကို ချုပ်ဆေးအဖြစ် သုံးနိုင်သည်။ ပိုးခြည်ထုတ်သော ပိုးကောင်များအား ပိုးစာရွက် ကျွေးသကဲ့သို့ သပြုရွက်ကိုလည်း ကျွေးနိုင်သည်ဟု ဆိုသည်။ အရွက်ခြောက်များကို ဆင်စွယ်နှင့် ဦးချိုများအား ပွတ်တိုက်ရန် ကော်ဖတ်အဖြစ် အသုံးချနိုင်လေသည်။

သပြုပင်သည် ရှင်သန် ကြီးထွားလွယ်သည်။ တောများထဲ၌ သပြုသီးများကို ဆင်များ စား၍ အညစ်အကြေး စွန့်ပစ်ရာ၌ ပါသွားသော အစေ့များမှလည်း မျိုးဆက်ပျံ့ပွားသည်။ မြစ် ချောင်း ကမ်းဘေး၌ ပေါက်သော အပင်များမှ ကြွေကျ၍ ရေမျောပါသွားသော အသီးများသည် ကမ်းစပ်တွင် တဖန် ပြန်၍ တင်ကျန်ခဲ့ရာမှ ပုပ်ရိဆွေးမြည့်သောအခါ ယင်းတို့၏ အစေ့များမှလည်း မျိုးဆက် ပျံ့ပွားသည်။ လောင်းရိပ်ခံ အပင်မျိုး ဖြစ်၍ အရိပ်များသော နေရာများ၌ပင် အပင်ငယ်များ အများအပြား ပေါက်ရောက်ကြသည်။ သပြုပင်သည် အငုတ်များမှလည်း အပင်ကောင်းစွာ ပေါက်နိုင်လေသည်။

သပြုပင်ကို ပဝတ္တိ စိုက်ပျိုးရန်မှာ ဒီဇင်ဘာနှင့် ဇန်နဝါရီလများအတွင်း ဆွတ်ခူးသော အသီးရင့်များမှ ထုတ်ယူသော အစေ့များကို ပျိုးခင်း၊ သို့မဟုတ် ပျိုးသေတ္တာထဲတွင် မေလမှ စတင်ပျိုးရသည်။ ပေါက်လာသော အပင်ငယ်သည် တနှစ်သားရလျှင်၊ သို့မဟုတ် သုံးလက်မမှ လေးလက်မခန့်ရှိလာလျှင် မိုးဦးကျ အချိန်၌ အလိုရှိသော နေရာသို့ ရွှေ့ပြောင်း စိုက်ရသည်။ မူလအပင်အောက်၌ပေါက်နေသော အပင်ပေါက်ကလေးများကိုလည်း ပျိုးခင်းများထဲသို့ ရွှေ့ပြောင်း ပျိုးထောင်နိုင်လေသည်။

အသားသေပြီးသော သပြုသား ကုဗ တပေသည် ၄၉ ပေါင် အချိန်စီးသည်။ သပြုသားသည် နီ၍ အဖြူပြောက်များရှိသည်။ အကြောစိပ်၍ အသင့်အတင့် မာသည်။ အရိပ်ထဲ ထားရသော ပစ္စည်းအဖြစ်ရင်း၊ ရေနှင့် ထိတွေ့နေသော ပစ္စည်းအဖြစ်ရင်း သပြုသားကို ပြုလုပ် အသုံးချလျှင် ကြာရှည်ခံသည်။ ကောင်းစွာ ဂရုစိုက်၍ အခြောက်မခံလျှင်မူ သပြုသားသည် လိမ်ကောက်၍ ကွဲတတ်သည်။ သပြုသားကို အိမ် အဆောက်အအုံများ၊ လှေများ၊ သေနတ်ဒင်များ၊ ကရိယာ တန်ဆာပလာ လက်ကိုင်များအတွက် အသုံးပြုနိုင်သည်။ သပြုပင်သည် ပင်စည်ကောက်တတ်သောကြောင့် သပြုသားကို အလျားရှည်ရှည် မရနိုင်ပေ။ သပြုအကာသားဘွင် အပူဓာတ် ကယ်လိုရီ ၅,၂၂၆ ပါဝင်၍ အနှစ်သားတွင် ၅,၂၂၇ ပါဝင်သဖြင့် ထင်းဆိုက်၍လည်း ကောင်းလေသည်။

သပြုပင်ကို စိမ်းစို ဝေဆာနေသော ရွက်အုပ်၊ အနီရောင်ရှိသော အခေါက်နှင့် အကြောပြိုင်ထကာ တွန့်နေသယောင်ရှိသော အရွက်များကြောင့် ထင်ရှား သိသာနိုင်ပေသည်။

**သပြေပင်**။ ။ရှေး ရောမခေတ် အခါက သံလွင်ပင်မှ သံလွင်ခက်ကို အောင်အတိတ်၊ အောင်နိမိတ် ဆောင်သည့် အဆောင် အယောင်အဖြစ် အသိအမှတ် ပြုခဲ့ကြသကဲ့သို့ မြန်မာ့ယဉ်ကျေးမှု ဓလေ့ ထုံးစံတွင်လည်း ရှေးအခါမှစ၍ ယနေ့ထက်တိုင် သပြေပင်မှ အညွန့်အခက်တို့ကို အောင်အတိတ်၊ အောင်နိမိတ်၏ အဆောင် အယောင် အဖြစ် အသိအမှတ် ပြုလုပ်လျက် ရှိကြသည်။ ထိုကြောင့်



သပြေသီးနှင့် အရွက်များ

ပင် 'အောင်ပါစေ၊ သပြေပန်းနှင့် ရေချမ်းကို လော်င်း'ဟူ၍ရင်း၊'ပန်းသပြေ ညောင်ရေလောင်း၍ ဆုတောင်းမေတ္တာပို့သပါသည်'ဟူ၍ရင်း ကောင်းချီးဆုမွန် ပြုလေ့ရှိကြသည်ကို ကြားဘူးကြပေလိမ့်မည်။

လွတ်လပ်သော ပြည်ထောင်စု မြန်မာ နိုင်ငံ၏ တပ်မတော်တွင် ရာထူး အဆင့်အတန်း တံဆိပ်များ တီထွင်ခဲ့ရာတွင်ပင် သပြေရွက်တန်းနှင့် ကြယ်များကို မှတည်ထားလေသည်။ သာမန်အားဖြင့် ဘားတခု၊ ဘားနှစ်ခု စသည်ဖြင့် အလွယ်ပြောနေကြသော်လည်း အမှန်အားဖြင့် သပြေခက် (ဝါ) သပြေရွက်ဘန်း တခု၊ သပြေရွက်ဘန်းနှစ်ခု စသည်တို့သာ ဖြစ်သည်။ ထို့ကြောင့် သပြေသည် မြန်မာ လူမျိုးတို့အတွက် ထူးခြားသော အဆောင် အယောင်တရပ် ဖြစ်သည်။

သပြေပင်သည် ပင်စောက်မျိုး ဖြစ်၍ မီယာတစီအီးမျိုးရင်းဝင် ဖြစ်သည်။ မြန်မာနိုင်ငံ အနှံ့အပြား၌ တွေ့ရှိနိုင်သည်။ သပြေဟူ၍ သာမန်အားဖြင့် ပေါင်းရုံး ခေါ်ကြသော်လည်း သပြေမျိုးပေါင်း များစွာ ရှိသည်။ ယင်းတို့မှာ သပြေဖြူ၊ သပြေကြီး၊ သပြေရွက်ကြီး၊ တောင်သပြေ၊ ရေသပြေ၊ သပြေချဉ်၊ သပြေနီ၊ သပုံသပြေ၊ သပြေသို၊ သပြေကျွဲခေါင်း၊ နွင်းသပြေ၊ သပြေဆတ်ချေး၊ သပြေပေါက်ပေါက် စသည်ဘို့ ဖြစ်သည်။

သပြေသီးသည် မိုးရာသီတွင် မှည့်တတ်သည်။ထို့ကြောင့် 'ဝါဆို ဝါခေါင် ရေတွေကြီးလို့ သပြေသီးမှည့် ကောက်ဖို့ကွယ်' ဟူသော ကလေး ကဗျာကလေးများ ပေါ်ခဲ့ခြင်း ဖြစ်သည်။

ရုက္ခဗေဒ အမည်အားဖြင့် ယူဂျေးနီးယား ဂျမ်ဗိုလနာ၊ သို့မဟုတ် ဆိုင်ဇီဂီယမ် ကူမိနီ ခေါ်သော သပြေဖြူသည် အမြဲ စိမ်းလန်းသော အပင်ဖြစ်၍ အကိုင်း အလက်များ ဖြူယောင်ယောင် နေသည်။ အရွက်သည် အရင်းဝိုင်း၍ အလျားရှည် ထိပ်ချွန်သည်။ အရွက် အလယ်ရှိ အကြောမပေါ်သည်။ အပွင့်ဖြူ၍ သေးသည်။ သုံးလေးပွင့် ဆိုင်၍ ပွင့်သည်။ အသီးသည် ထိပ်ဝိုင်း၍ လက်မဝက်ခန့် ရှည်လျားလျားကလေး နေသည်။ အရောင်မှာ ခရမ်းရောင်ပုပ်ပုပ်ဖြစ်သည်။ အခွံပျော့ဖြစ်၍ ချောမွတ်သည်။ အစေ့တစေ့သာ ပါဝင်သည်။ အသီးသည် ချဉ်ဖန်ဖန် အရသာရှိသည်။ အပွင့်သည် ပြေီနှင့် မေလများ၌ ပွင့်၍ အသီးသည် မေနှင့် ဇွန်လများ၌ မှည့်တတ်သည်။ သပြေဖြူ သစ်သားသည် ကြမ်း၍ အတော်အသင့် မာသည်။ ရေထိသော်လည်း ဆွေးမသွားပဲ ကြာရှည် ခံသည်။ ခိုင်ခံ့သော သစ်သားလည်း ဖြစ်သည်။ အိမ်ဆောက်၊ လှည်းနှင့် လှည်းဘီး၊ လှေစပ်၊ လှော်တက် ရွက်တိုင်လုပ်ရာ၌ရင်း၊ ရေတွင်းကျည်းခွေ၊ ကျည်းပေါင် စသည်တို့ လုပ်ရာ၌ရင်း အသုံးပြုကြသည်။ မီးသွေးဖုတ်ရန် ကောင်းသော သစ်သားလည်း ဖြစ်သည်။ သပြေဖြူပင်၏ အခေါက်တွင် အဖန်ဓာတ် ရှိသည်။ အရွက်သည် ဝမ်းကိုက်ရောဂါ အတွက်ရင်း၊ အသီးသည် ဝမ်းသက်ရောဂါအတွက်ရင်း ဆေးဖက်ဝင်သည်ဟု မြန်မာဆေးကျမ်းများ၌ ဆိုသည်။ အရွက်ကို ပြုတ်၍ မျက်စိနာသည့်အခါ မျက်စဉ်းခတ်နိုင်ကြောင်းဖြင့်လည်း ဆိုလေသည်။

ရုက္ခဗေဒ အမည်အားဖြင့် ဆိုင်ဇီဂီယမ် ဂရန်းဒေ ဟုခေါ်သော သပြေကြီးပင်သည် သပြေဖြူပင်နှင့် ပုံသဏ္ဌာန်ချင်း တူသည်။ သပြေကြီးရွက်သည် သပြေဖြူရွက်ထက်ကြီးသည်။ သစ်သားရောင် နီ၍ ကြမ်းပြီး မာသည်။ ယင်းကို များသောအားဖြင့် မြန်မာနိုင်ငံ အောက်ပိုင်းရှိ မြေညီသစ်တောနှင့် တောင်နိမ့်ပိုင်း သစ်တောများ၌ တွေ့ရတတ်လေသည်။

ဘောင်သပြေပင်သည် သပြေဖြူပင်နှင့် သပြေကြီးပင်တို့လောက် မြင့်မားသော အပင်မျိုး မဟုတ်ချေ။ အပင်အမြင့် ၃၅ ပေထက် ပို၍ မမြင့်တတ်ချေ။ ယင်းကို တောင်ရိုးပြည်ဇင်းပင် ဟူ၍လည်း ခေါ်သည်။ ရုက္ခဗေဒ အမည်မှာ ထရစ္စတာနီးယား ဗာမင်းနီးကား ဖြစ်သည်။ သစ်သားသည် အတော်အသင့် မာ၍ ညိုဖျော့ဖျော့ အရောင်ရှိသည်။ တောင်သပြေသားကို သာမန် အဆောက်အအုံဆောက်လုပ်ရာ၌ သုံးသည်။ မြန်မာနိုင်ငံ ဝနယ်၌ အများအပြား ပေါက်ရောက်သည်။

ရေသပြေပင်သည် အရွယ် အလတ်စား သစ်ပင်မျိုး ဖြစ်သည်။ အခေါက်မှာ ချောမွတ်၍ မဲပြာရောင် ရှိသည်။ အရွက်သည် ရှည်သွယ်သွယ် ဖြစ်၍ အမဲစက်များ ပါသည်။ အလယ်ကြောမသည် ရွက်အောက်၌ ပို၍ ထင်ပေါ်သည်။ အသီးသည် ထိပ်နှစ်ဖက် မချွန်ပဲ ပြားသည်။ မိုးအကုန် စက်တင်ဘာလခန့်တွင် အပွင့် ပွင့်၍ အောက်တိုဘာလတွင် အသီး မှည့်တတ်သည်။ ရေသပြေသီးမှည့်များကို တခါတရံ ဈေးများတွင် ရောင်းချကြသည်ကို တွေ့ရသည်။ အသီး မှည့်သည် အရသာ ချို၍ အရည်ရွှမ်းသည်။ ရေသပြေပင် ကို ခြံဥယျာဉ်များ၌ တွေ့နိုင်သည်။ ရေစပ်၌ များသော အားဖြင့် ပေါက်သည်။ သို့ရာတွင် အစုလိုက် အများအစား ပေါက်လေ့ မရှိချေ။ ရုက္ခဗေဒ အမည်အားဖြင့် ယင်းကို ဆိုင်ဇီဂီယမ် အကွေးယားဟု ခေါ်သည်။

သပြေနီပင်ကို ရုက္ခဗေဒ အမည်အားဖြင့် ဆိုင်ဇီဂီယမ် ဖရုတီးကိုးစမ်း ဟုခေါ်သည်။ ယင်းသည် အရွယ် အလတ် စားမျိုး ဖြစ်၍ အရွက် နီကျန့်ကျန့် ဖြစ်သည်။ သစ်သား မှာ အညိုရောင်ဖြစ်၍ မာသည်။ ပေါ့ပေါ့ပါးပါး မရှိ၊ လေး လံသည်။ ယင်းကို အိမ်ဆောက်ရာ၊ ထွန်ထယ် စသော စိုက်ပျိုးရေး ကရိယာ ပြုလုပ်ရာ၊ လှေစပ်ရာနှင့် ရေတွင်း ပေါင်ခတ်ရာ၌ သုံးသည်။ သပြေနီပင်ကို မြန်မာ နိုင်ငံ အရပ်ရပ် အင်တိုင်းတောများ၌ တွေ့ရတတ်သည်။ တနင်္သာ ရီတိုင်း၌ တွေ့ရသော သပြေ ဆတ်ချေးပင်ကိုလည်း သပြေ နီဟု အချို့က ခေါ်ကြသည်။ သို့ရာတွင် သပြေ ဆတ် ချေးပင် အစစ်၏ ရုက္ခဗေဒ အမည်မှာ ဆိုင်ဇီဂီယမ် အိုဗလာတမ် ဖြစ်သည်။

သပြေချဉ်ပင်သည်လည်း အရွယ်အလတ်စား ပင်စောက် မျိုးဖြစ်သည်။ ယင်းကို ပဲခူး၊ မုတ္တမ၊ တနင်္သာရီ စသော ဒေသတို့၌ များသောအားဖြင့် ပေါက်ရောက်သည်ကို တွေ့ရ သည်။ သပြေချဉ်ပင်ကိုပင် အချို့က ရေသပြေပင် ဟု ခေါ်ကြသည်။ သစ်သားသည် ညိုမွဲမွဲအရောင် ဖြစ်၍ သပြေနီသားကဲ့သို့ပင် အမျိုးမျိုး အသုံးချနိုင်သည်။ သပြေ ချဉ်ပင်၏ ရုက္ခဗေဒ အမည်မှာ ဆိုင်ဇီဂီယမ် စီရာဆိုင်ဒီ ယမ်ဖြစ်သည်။

ရုက္ခဗေဒ အမည်အားဖြင့် ဆိုင်ဇီဂီယမ် ဂျမ်ဗော့ ဟုခေါ်သည့် သပြူသပြေပင်သည် အခက်အလက် ဝေဆာ သော အပင်ကြီးမျိုး ဖြစ်သည်။ အရွက်သည် ရှည်လျား လျားနှင့် ထိပ်ချွန်သည်။ အပွင့်များသည် ကြီး၍ ခရမ်း ရောင် ဖြစ်သည်။ တခိုင်တည်း ၄ပွင့်တတ်သည်။ ဝါဆို ဝါခေါင်တွင် အသီးမှည့်သည်။ အသီးသည် ကြက်ဥအရွယ် ရှိ၍ အရင်းကားပြီး ထိပ်ချွန်းသည်။ အရောင်မှာ နှင်းဆီ ရောင် အရင့်မှ ခရမ်းရောင် ပုပ်ပုပ်အထိ ရှိသည်။ သို့ရာ တွင် အတွင်းသားသည် အဖြူရောင်ဖြစ်သည်။ နှင်းသီး ပန်း သီးတို့ကဲ့သို့ အသားပွသည်။ အစေ့တစေ့သာ ပါသည်။ အသီးကို အစိမ်းစားကြသည်။ အရသာရှိသည်။

အထက်ပါ သပြေပင်မျိုးများ အပြင် မြန်မာ နိုင်ငံ၌ တွေ့ရှိရသော အခြား သပြေပင်မျိုးများမှာ (၁) တနင်္သာ ရီတိုင်း မုတ္တမနယ်တွင် တွေ့ရှိရသော သပြေပေါက်ပင်၊ (၂) မြစ်ကြီးနား နယ်တွင် ပေါက်သော သပြေဒါးပင်၊ (၃) တနင်္သာရီတိုင်း တောင်များပေါ်တွင် ပေါက်သော သပြေချိုပင်၊ (၄) တနင်္သာရီ တောင်ပိုင်းနှင့် မြစ်ကြီး နားနယ်တွင် တွေ့ရသော သပြေရစ်ပေါက်ပင်၊ (၅) ဗန်း မော်၊ မြစ်ကြီးနား၊ မော်လိုက်၊ မော်လမြိုင်၊ ကျိုက္ကမီနယ် ပတ်ဝန်းကျင်တွင် တွေ့ရသော ဝဘော ခေါ် သပြေပင် ပွားခေါ် ကျွဲသပြေပင်၊ (၆) ရွှေဘို၊ မိတ္ထီလာနယ်တဝိုက် တွင် တွေ့ရသော ရေသပြေသိမ်ပင်၊ (၇) မြန်မာ နိုင်ငံ အောက်ပိုင်းတွင် တွေ့ရတတ်သော တောသပြေ ခေါ် သတ်သပြေ၊ (၈) တနင်္သာရီတိုင်း မြိတ်နယ်နှင့် အထက် မြစ်ကြီးနား နယ်တို့တွင် တွေ့ရသော စွန်သပြေခေါ် သန် သပြေပင်တို့ ဖြစ်ကြသည်။

**သပွတ်ပင်။** ။သပွတ်ပင် အမည်ခံ အပင် အမျိုးမျိုး ရှိသည့်အနက် အနွယ်ပင် ဖြစ်သော သပွတ်သည် ကျူကာ ဗိတေစီအီး မျိုးရင်းတွင် ပါဝင်၍ ခဝဲ၊ ပဲလင်းမြွေ၊ ဗူး၊ ဖရုံ၊ သခွားတို့နှင့် မျိုးရင်းတူဖြစ်သည်။ ရုက္ခဗေဒ အမည်အား ဖြင့် လွတ်ဖား အီဂျစ်တီကား ဟုခေါ်သည်။ အာရှတိုက် အပူပိုင်း ဒေသများ၌ မူလပေါက်ရောက်ခဲ့ရာမှ အနွေးပိုင်း ဒေသများသို့လည်း မျိုးပျံ့ခဲ့သည်။ မြန်မာ နိုင်ငံတွင် အလွယ်တကူ စိုက်ပျိုးဖြစ်ထွန်း၍ အချို့ အရပ်ဒေသများ တွင် အလေ့ကျ ပေါက်ရောက်လေသည်။

သပွတ်နွယ်ကို နှစ်စဉ် စိုက်ပျိုးရ၍ ထိုနွယ်ပင်သည် နှစ်ခု၊ သို့မဟုတ် ထိုထက်ပိုမိုသော နွယ်နှာမောင်းများဖြင့် စင်ကိုဖြစ်စေ၊ အခြားအပင်များကိုဖြစ်စေ လိမ်ယှက်တွယ် ကပ် ပေါက်ရောက်တတ်သည်။ အရွက်များသည် ရွက်လွှဲ ထွက်ကြသည်။ အရင်းကား၍အဖျားရှူးကာ ငါးထောင့် ချွန်း ပုံသဏ္ဌာန်ရှိသော ထိုအရွက်များသည် အတန်ငယ် ဟိုက်၍ နှုတ်ခမ်းသားတွင် ခွေးသွားစိတ်ကလေးများ ရှိ သည်။ နှစ်လက်မခန့်ရှိသော ရွက်ညှာရှိသည့် နေရာတွင် အရွက်သည် ချိုင့်ဝင်နေသည်။ အရွက်၏ အောက်ဖက်ရှိ အကြောများပေါ်တွင် မွေးနုကလေးများရှိလေသည်။

သပွတ်နွယ်ပင်မှ အဖိုအမ နှစ်မျိုးလုံး သီးခြားအပွင့် ပွင့်ကြသည်။ အပွင့်များသည် အဝါရောင်ဖြစ်၍ အမွေးနု ကလေးများရှိသောအကြောစိမ်းကလေးများပေါ်နေသည်။

သပွတ်သီးသည် အလျား ငါးလက်မမှ ၁၂ လက်မအထိ ရှည်၍ တင်းပုတ်ပုံသဏ္ဌာန် ရှိသည်။ ခဝဲသီးနှင့် ဆင်ဆင်



ဟင်းချက်စားရသည့် သပွတ်သီး၊ အရွက်နှင့် အပွင့်

တူသော်လည်း ခဝဲသီးကဲ့သို့ စောင်းများမရှိချေ။ အချို့က ခဝဲသီးကို သပွတ်ခဝဲ ဟု ခေါ်ကြသည်။ ခဝဲသီးကဲ့သို့ အတွင်းသားများသည် ဖွာဖွေးနေ၍ အသားပွပြီးလျှင် အရည် ရွှမ်းသည်။ အစေ့များသည် လက်မဝက်ခန့်အထိရှည်၍ အတန်ငယ် ပြားပြီးလျှင် သေးငယ်သော ဘေးသားရှိလေသည်။ (ခဝဲပင် – လည်းရှု။)

သပွတ်သီးနုနုများကို အခွံသင်၍ ကြော်ချက်ဖြစ်စေ၊ ဟင်းချိုဖြစ်စေ ချက်ပြုတ်စားကြသည်။ အညွန့်များကို အတို့အဖြစ် သုံးဆောင်ကြသည်။ မြန်မာဆေးကျမ်းများ အလိုအရ သပွတ်သီးသည် ချိုသည်။ အေးသည်။ လေသလိပ်ကို ပျက်စေသည်။ သည်းခြေကိုနိုင်သည်။ ဝမ်းမီးကို တောက်စေတတ်သည်။ ချောင်းဆိုးနာ၊ ပန်းနာ၊ အဖျားနာ၊ ပိုးနာတို့ကို နိုင်သည်ဟု ဆိုလေသည်။

မျိုးစိတ်ချင်း အတန်ငယ်ကွဲပြားသော သပွတ်နွယ်ပင်များ ရှိကြရာ အထက်ဖော်ပြပါ သပွတ်မျိုးကို သပွတ်ချိုဟုလည်းခေါ်သည်။ ထိုပြင် ဟင်းချက်သည့်အခါ အလွန်မွှေးကြိုင်သော သပွတ်မွှေးသီး၊ ဟင်းချက်သည့် အခါစား၍ မရလောက်အောင်ပင် ခါးသည့် သပွတ်ခါးသီးစသည်တို့လည်း ရှိကြသည်။ အရိုင်းပင်မျိုးမှ သပွတ်သီးသည် ခါးသည်။ အသီးများတွင် ဆက်ပိုနင် ဓာတ်နှင့် မျူစင်ဓာတ်တို့ပါသည်။ အသီး၏ အရည်သည် ဝမ်းသွားစေ၍ အဆိပ်လည်း ဖြစ်တတ်သည်။ အိန္ဒိယဆေးကျမ်းများအရ အစေ့များ၌ အန်စေတတ်သောသတ္တိ၊ ဝမ်းလျှောစေတတ်သောသတ္တိ ရှိသည်ဟု ဆိုလေသည်။

သပွတ်သီးများ ရင့်လာသည့် အခါ အတွင်းသား၏ အမျှင်များသည် မာကျော၍ စာပေါင်းသိုက် သဖွယ် ဖြစ်လာသည်။ ထိုအမျှင်များကို သပွတ်အူ ဟု ခေါ်ကြသည်။ ထို့ကြောင့် ပြဿနာတခုခုရှုပ်ထွေးနေလျှင် သပွတ်အူ လိုက်နေသည်ဟု မြန်မာတို့ ခိုင်းနှိုင်းပြောဆိုလေ့ ရှိကြသည်။ အသီးရင့်၏ အခွံကိုခွာ၍ အသီးတောင့်ပုံသဏ္ဌာန် အတိုင်း ရှိနေသောအမျှင်များကို တိုက်ချွတ် ဆေးကြောရာ၌ အသုံးပြုသည်။ ဂျပန်နိုင်ငံသည် သပွတ်အူများကို ထွက်ကုန်ပစ္စည်းတရပ်အဖြစ် လုပ်ကိုင်လေသည်။

သပွတ် အမည်ခံသော သစ်ပင်များ ရှိသည့်အနက် သပွတ်ကြီး၊ သပွတ်နက်၊ သပွတ်သိမ်တို့သည် အနိုနေစီအီးမျိုးရင်းဝင်ဖြစ်ကြသည်။ သပွတ်ကြီးသည် ဩဇာ၊ စံကား၊ သဘော်ာတည်ပင်တို့နှင့် မျိုးရင်းချင်း တူသည်။ ရုက္ခဗေဒ အမည်အားဖြင့် သပွတ်ကြီးကို မီလီယူဆာ ဗဲလျူတီနားဟု ခေါ်သည်။ ပေ ၃၀ မှ ၄၀ အထိ အမြင့်ရှိနိုင်သော အပင်လတ်စားဖြစ်ပြီးလျှင် ရွက်ကြွေပင်မျိုးလည်း ဖြစ်သည်။ ထိုအပင်များကို အထက်နှင့်အောက် မြန်မာနိုင်ငံ မြေပြန့်တောများတွင် တွေ့ရလေသည်။

သပွတ်ကြီးပင်၏ အကိုင်းအလက်များတွင်၎င်း၊အရွက်များတွင်၎င်း မွေးနုကလေးများဖုံးလွှမ်းနေသည်။ အရွက်၏ ပုံသဏ္ဌာန်သည် ရှည်လျားလျား ဘဲဥပုံ ဖြစ်သည်။ အလျားသုံးလက်မမှ ကိုးလက်မအထိ ရှည်နိုင်၍ ပြက်အကျယ် နှစ်လက်မမှ လေးလက်မအထိ ရှိနိုင်လေသည်။ အရွက်ညှာတံကို ပွတ်ချေလိုက်လျှင် မွှန်သော အနံ့တမျိုး ထွက်လာလေသည်။ သပွတ်ကြီးပင်မှ ပွင့်ညှာတံရှိသော တပင်တိုင်ပန်းခိုင်မျိုးပွင့်သည်။ ယင်းတို့သည် နှစ်လက်မမှ ခြောက်လက်မအထိ ရှည်၍ အဝါရောင်ဖျော့ဖျော့ ဖြစ်လေသည်။

ဖေဖော်ဝါရီလမှ မတ်လအတွင်း အရွက်ကြွေ၍ မတ်လမှ မေလအတွင်း၌ ရွက်သစ်ထွက်သည်။ ဇွန်လနှင့် ဇူလိုင်လတွင် အသီးများမှည့်သည်။ အသီးမှည့်သည် အချင်းလက်မဝက်ခန့်ရှိ၍ ထိပ်လုံးကာ အစေ့နှစ်စေ့ ပါသည်။ အိန္ဒိယနိုင်ငံတွင် သပွတ်ကြီး အသီးကို အချို့ စားသုံးကြသည်။ အရွက်များကိုမူ ကျွဲစာနွားစာအဖြစ် အသုံးချကြသည်။

သပွတ်ကြီးပင်၏ အသားသည် မီးခိုးရောင်၊ သို့မဟုတ် မွဲပြာပြာဖြစ်သည်။ အတော်အသင့်မာ၍ ခွဲစိတ်ရန် လွယ်ကူသော်လည်း လိမ်ကောက်သွားတတ်လေသည်။ အသားသေအောင် အခြောက်ခံထားရ ပြီးလျှင် သစ်သားကုဗတပေသည် ၄၅ ပေါင်ခန့် လေးသည်။ သပွတ်သားကို တဲအိမ်၊ လှည်းယာဉ်၊ ထမ်းပိုး၊ လှော်တက်နှင့် လုံရိုးများ ပြုလုပ်ကြသည်။ တူနှင့်ပေါက်ချွန်း လက်ကိုင်ရိုးပြုလုပ်ရန် လည်း သင့်တော်သောအသားမျိုးဖြစ်လေသည်။

သပွတ်အမည်ခံ သစ်ပင်တမျိုးဖြစ်သော သပွတ်နက်ကို

ရက္ခဗေဒ အမည်အားဖြင့် မိုင်ထရီဖိုရာ မအောင်ဂယီဟုခေါ်သည်။ အထက် မြန်မာနိုင်ငံတွင် တွေ့ရသော အတော်အသင့် ကြီးသည့် အပင်မျိုးဖြစ်သည်။ မလ္လာယု ကျွန်းဆွယ်နှင့် ဂျားဗားကျွန်းတို့တွင်လည်း ပေါက်ရောက်သည်။

သပွတ်နက်ပင်၏ အကိုင်းငယ်များ ပေါ်တွင် သံချေးရောင် မွေးနုကလေးများရှိသည်။ အရွက်၏ ပုံသဏ္ဍာန်သည် အဖျားရှူးသော ဘဲဥပုံမျိုးဖြစ်၍ သုံးလက်မမှ ခုနစ်လက်မအထိရှည်ပြီးလျှင် ၁½လက်မမှ ၂½လက်မ အထိ ပြက်ကျယ်သည်။ အရွက်သည် ဘောင့်တောင့် ကလေးနေ၍ အရွက်ရောင်သည် အစိမ်းရောင်ဖျော့သည်။အရွက်၏အောက်ဖက်တွင် အကြောမြှာတို့သည် ထင်ထင်ရှားရှား ပေါ်နေကြ၍ အကြောများ ခြောက်စုံမှ ၁၂ စုံအထိပါရှိတတ်လေသည်။ ရွက်ညှာတံတွင် မွေးနုကလေးများ ရှိလေသည်။

ဖေဖွာရီလမှ ဧပြီလအတွင်း အဝါရောင်တွင်အနီကွက်ကလေးများပါသည့် လှပသော ပန်းပွင့်များ ပွင့်သည်။ အပွင့်၏ ပွင့်ချပ်သည် အန် အလျားညီတူဖြစ်၍ အပြင်သားတွင် မွေးနုများရှိသည်။ ပွင့်ဖတ်တွင်လည်း အမွေးနုကလေးများ ရှိလေရာ ထိုအမွေးနုကလေးများသည် ပွင့်ဖတ်တခုနှင့် တခုကို ဆက်စပ်ထားလေသည်။ ပွင့်ဖတ်၏ အနားသည် အတွန့်ကလေးများ ဖြစ်လေသည်။

သပွတ်နက်၏ အသီးသည် မှည့်သည့်အခါ တလက်မခန့် ရှည်၍ ထိတ်ချွန်သော ဘဲဥပုံဖြစ်သည်။ အသီးတွင်မွေးနုကလေးများ ဖုံးလွှမ်းလျက်ရှိ၍ အသီးတလုံးတွင် အစေ့လေးစေ့ပါဝင်လေသည်။

သပွတ်အမည်ခံ အခြားအပင်တမျိုးဖြစ်သော သပွတ်သိမ်၏ရက္ခဗေဒအမည်မှာ မီလီယူဆာ ရော့ဇဗာဂီယာနာဖြစ်သည်။ သပွတ်သိမ်ပင်များကို မြန်မာနိုင်ငံ၊ ဆစ်ကင်ပြည်နယ်၊ အာသံပြည်နယ်နှင့် ခါစီ တောင်တန်းတို့တွင် အမြင့်ပေ ၂,၀၀၀ ရှိဒေသများအထိ ပေါက်ရောက်သည်ကို တွေ့ရသည်။

ထို အပင်မျိုးသည် အမြင့်ပေ ၅၀ အထိ ကြီးမားနိုင်ကြသည်။ အကိုင်းနုများတွင် နူးညံ့သော အမွေးများရှိသည်။ အရွက်သည် ရှည်လျားလျားဖြစ်၍ လှံသွားကဲ့သို့ ထိပ်ချွန်သော ပုံသဏ္ဍာန် ရှိသည်။ အရွက်၏ အလျားသည် သုံးလက်မမှ ခြောက်လက်မအထိရှိ၍ ပြက်အကျယ် တလက်မမှ နှစ်လက်မအထိဖြစ်သည်။ အရွက်၏ အပေါ်ဖက်သည် ပြောင်ချောနေ၍ အောက်ဖက်တွင်မူ အမွေးနုများရှိလေသည်။

အပွင့်တွင် ပွင့်ချပ် သုံးခုပါရှိရာ ယင်းတို့သည် အစိမ်းရောင်ဖြစ်သည်။ အပွင့်၏ အပြင်ပွင့်ဖတ်တို့သည် အစိမ်းရောင် ဖြစ်သော်လည်း အတွင်း ပွင့်ဖတ်တို့သည် အစိမ်းရင့်နှင့် အနီရောင် ရောနှောနေသည်။ အသီးမှည့်တို့သည် လုံးဝန်း၍ အချင်း ½လက်မရှိသည်။ အသီးတလုံးတွင် အစေ့ တခု တခါတရံ နှစ်ခုပါတတ်လေသည်။

**သဖန်းပင်။** ။သဖန်းပင်သည် ညောင်ပင်၊ ခအောင်းပင်တို့နှင့် မျိုးရင်းတူပင်ဖြစ်သည်။ ယင်းသည် ပိုးစာပင်ကဲ့သို့ပင် မိုရေးစီအီး မျိုးရင်းဝင် ဖြစ်သည်။

သဖန်းပင်သည် ပင်ငယ်မျိုးမှ ပေ သုံးဆယ်လေးဆယ်မြင့်သော ပင်ကြီးမျိုးအထိ အပင်မျိုးကွဲပေါင်း များစွာပါဝင်သည်။ ယင်းတို့အနက် အထင်ရှားဆုံးမှာ ရက္ခဗေဒအမည်အားဖြင့် ဖိုင်းကပ် အန္တားလတား ခေါ် ညောင်သဖန်းမျိုး၊ ဖိုင်းကပ် ဂလိုမီရာတာခေါ် ရိုးရိုး သဖန်းမျိုး (ယင်းကိုရေသဖန်းဟုလည်းခေါ်ကြသည်။)၊ ဖိုင်းကပ် ကာရိကာ ခေါ် သဘော်သဖန်းမျိုးနှင့် ဖိုင်းကပ် ရော့ဇဗာဂီအိုင် ခေါ် ဆင်သဖန်းမျိုးတို့ ဖြစ်ကြသည်။ တရုပ်နှင့်ဂျပန်နိုင်ငံတို့၌ နွယ်ပင်ကဲ့သို့ စင်တင်အလှစိုက်သောသဖန်းပင်မျိုးလည်းရှိသည်။

မြန်မာနိုင်ငံတွင် သဖန်းပင်ကို ရေနှင့်နီးနီး ချောင်းကမ်းဘေးတွင် တွေ့ရတတ်သည်။ ထိုကြောင့် သဖန်းပင်ရိုးရိုးကိုပင် တခါတရံ ရေသဖန်းဟု ခေါ်ကြခြင်းဖြစ်သည်။

ရေသဖန်းပင်သည် အမြဲစိမ်းလန်းသောပင်ငယ်မျိုးဖြစ်သည်။ ငါးပေမှ ရှစ်ပေအထိ မြင့်တတ်သည်။ အရွက်တို့သည် အရင်းကား၍ အဖျားသွယ်ရှည်သည်။ တပေ၊ တပေခွဲခန့်ရှည်ကြသည်။ အနားညီရွက်ဖြစ်သည်။ အရွက်နု၌ အမွေးနု အနည်းငယ်ရှိသော်လည်း အရွက်ရင့်သောအခါ အမွေးမရှိချေ။ အရွက်တွင် အလယ်ကြောမကြီးနှင့် တကွ ဘေးကြောများ ခြောက်စုံမှ ရှစ်စုံအထိ ပါတတ်သည်။ အသီးသည် သစ်သော့သီးပုံသဏ္ဍာန်ရှိ၍ အချင်း တလက်မမှ တလက်မခွဲ အထိ ရှိသည်။ အသီးခွံပေါ်၌ အလျားလိုက်အကြောစင်းများ ပေါ်နေသည်။ ရေသဖန်းပင်သည် ရေစပ်၊ သို့မဟုတ် ရေနီးသောနေရာ၌ ပေါက်တတ်သည်။

သဘော်သဖန်းပင်သည် ပင်ပျပ် သစ်ပင်ငယ်မှ အပင်ကြီးမျိုးအထိ ရှိသည်။ ၁၅ ပေမှ ပေ ၃၀ ခန့်အထိ မြင့်တတ်သော ရွက်ကြွေပင်မျိုးဖြစ်သည်။အရွက်သည် ကြီး၍ အကြောများ ထနေသည်။ အမွေးပါး၍ ကြမ်းသည်။ ရွက်ရင်းကား၍ ထိပ်တွင် အဟိုက်ကြီးများ ဖြစ်ကာ ရွက်လက်ငါးခုခန့်ကွဲနေတတ်သည်။ တခါတရံ ရွက်ဟိုက်သည် ရွက်ရင်းနားအထိပင် ရောက်တတ်သဖြင့် အရွက်ငါးခု ဖြစ်နေသကဲ့သို့ ထင်ရသည်။ အသီးသည် ရေသဖန်းသီး ကဲ့သို့ပင် ဖြစ်သည်။ နိုင်ငံခြားမှတင်ယူစားသောက်နေကြသော သဖန်းသီးခြောက်သည် သဘော်သဖန်းသီးကို အခြောက်

လှန်းထားခြင်း ဖြစ်သည်။ သဘော်သဖန်းပင်သည် မိုး အနည်းငယ်သာရ၍ ရေမဝပ်သည့် နုံးဆန်ဆန် မြေပွမျိုး တွင် ကောင်းစွာ ဖြစ်ထွန်းနိုင်သဖြင့် မြန်မာနိုင်ငံ အထက် ပိုင်းရှိ မိုးပါးသော အရပ်များ၌သာ စိုက်ပျိုး၍ ရသည်။ သို့ရာတွင် မြန်မာနိုင်ငံ၌ စီးပွားရေးအတွက် စနစ်တကျ စိုက်ပျိုးလုပ်ကိုင်ခြင်း မရှိသေးချေ။ အသီး ကောင်းစေလို သော် အပင်များ အထက်သို့ မပျံစေရန် အကိုင်း အခက် များကို ချိုင်ပေးခြင်း၊ အနာအဆာရှိသောအမြစ်၊ ဆွေး မြေ့နေသော အမြစ်များကို သုံးနှစ်တကြိမ် ဖြတ်တောက် ပစ်ခြင်း၊ ထုံးအနည်းငယ် ပါသော မြေဩဇာ ကျွေးခြင်း များပြုရသည်။

ဆင်သဖန်းပင်သည် သဖန်းငယ်ပင်တမျိုးဖြစ်၍ မြန်မာ နိုင်ငံကွင် တနင်္သာရီတိုင်းမှ အပ အနှံ့အပြားတွင် တွေ့နိုင် သည်။ ပေ ၆,၀၀၀ မြင့်သော ဒေသများအထိ ပေါက်နိုင် သည်။ အရွက်သည် နှစ်ပေခန့်အထိ ရှည်၍ အသီးသည် အချင်းနှစ်လက်မမှ သုံးလက်မအထိရှိသဖြင့် အသီးရော အရွက်ပါ အခြားသဖန်းမျိုး၏ အသီးအရွက်တို့ထက် ကြီး သည်။ ထို့ကြောင့် ဆင်သဖန်းဟု ခေါ်ဟန်တူသည်။

အာရှ မိုင်းနားပြည် စမီရနာမြို့မှ ထွက်သော သဖန်း သီးသည် စား၍ အကောင်းဆုံး သဖန်းသီးမျိုးဖြစ်သည်။ ထိုသဖန်းပင်မျိုးကို တကူးတကန့် စိုက်ပျိုး၍ စားကောင်း သော အသီးဖြစ်ရန် တမင် မွေးယူရသည်။ ယခုအခါ ထိုစမီရနာသဖန်းမျိုးကို အမေရိကန်ပြည်ထောင်စု ကာလီ ဖိုးနီးယား ပြည်နယ်၌ သီးသန့် စိုက်ပျိုးအောင်မြင် နေ လေပြီ။

သဖန်းသီးသည် အရွယ်အမျိုးမျိုး ရှိသည်။ ဆီးဖြူသီး အရွယ်မှ သစ်သော်သီး အရွယ်အထိ ဖြစ်သည်။ အရောင် သည် နက်ပြာ၊အနီ၊အစိမ်း၊ အဝါတို့ဖြစ်သည်။ သဖန်းသီး ၏ ထူးခြားချက်တရပ်မှာ ယင်းသည် သစ်သီးဟု အမည် တွင်နေစေကာမူ စင်စစ်အားဖြင့် သစ်သီး မဟုတ်ပေ။ အပွင့်ကလေးများကို ဖုံးအုပ်ကာကွယ်ထားသည့် အပွင့် အိမ်မျှသာ ဖြစ်ချေသည်။ အသီးအစစ်သည် ထိုအပွင့် အိမ်အတွင်းရှိ အစေ့ ဟု အများ ခေါ်သော အရာများ ဖြစ်သည်။ သဖန်းသီးဟုခေါ်သော ထိုအပွင့်အိမ်အစွန်းတွင် အပေါက်ငယ်တခုရှိရာ ထိုအပေါက်ငယ် အားဖြင့်သာလျှင် အတွင်းရှိ အပွင့်များ၌ တပင်မှတပင်သို့ မျိုးကူး ဝတ်ဆံ တည်မှုကို ဖြစ်စေနိုင်သည်။ ထို့သို့ ဝတ်မှုန်ဝတ်ဆံများသည် အပွင့်အိမ်တွင်း၌သာရှိသောကြောင့် လေတိုက်ခတ်သဖြင့် တပင်မှ ဝတ်မှုန်ဝတ်ဆံများ အခြားတပင်သို့ ရောက်ရသည့် နည်းများ၊ ပိတုန်းစသည့် အကောင်များ သယ်ဆောင် သဖြင့် ဝတ်မှုန်ဝတ်ဆံများရောက်နည်းများ စသော သာမန် နည်းမျိုးတို့ဖြင့် မျိုးကူးဝတ်ဆံတည်ခြင်း မဖြစ်နိုင်သဖြင့် ယင်းနည်းမျိုးဖြင့် သဖန်းသီးမျိုး အောင်အောင် ပြု၍ မရနိုင်ချေ။ သဖန်းသီးမျိုး အောင်ရန် အထောက် အပံ့ ပြုသော နည်းတနည်းရှိ၏။ ယင်းကား တောသဖန်းခေါ် သဖန်းပင် ရိုင်းများ၏ အသီးဟုခေါ်သော အပွင့်အိမ်များ အတွင်း၌ နကျယ်ကောင်တမျိုး နေတတ်ရာ ထိုနကျယ် ကောင်သည် ဥချချိန် ရောက်လာလျှင် အသား၏အပေါက် မှ အပြင်ဖက်သို့ ထွက်လာလေသည်။ထို့သို့ ထွက်လာသည့် အခါ နကျယ်ကောင်၏ ကိုယ်တွင် ထိုသဖန်းရိုင်းပင်၏ အပွင့်များမှ ဝတ်မှုန်ဝတ်ဆံများ တွယ်ကပ်၍ ပါလာလေ သည်။ အသီးကို လူတို့စားသုံးနိုင်သော သဖန်းပင်မျိုး ဖြစ်သည့် သဖန်းယဉ်ပင်၏ အပွင့်အိမ်တွင်းသို့ ထိုနကျယ် ကောင်သည် ဥချရန် ဝင်လေသည်။ ယင်းသို့ ဝင်လိုက်သည့် အခါ ကိုယ်တွင် ကပ်ပါလာသော ဝတ်မှုန် ဝတ်ဆံတို့နှင့် အပွင့်အိမ်သစ်အတွင်းရှိ ဝတ်မှုန်ဝတ်ဆံတို့ တွေ့ထိကြသဖြင့် မျိုးကူးစက်၍ သဖန်းသီးများ မျိုးအောင်ကြရလေသည်။ အထူးသဖြင့် စမီရနာ သဖန်းပင်စိုက်ခင်းများတွင် သဖန်း ပင် အရိုင်းမှ အသီးခိုင်များကို ချိတ်ဆွဲ၍ ထားရသည်။ သို့ ပြုလုပ်ထားမှသာလျှင် စမီရနာသဖန်းပင်မှ အသီးများ မျိုးအောင်၍ အနှစ်အရသာနှင့် ပြည့်စုံလာမည်ဖြစ်သည်။ အပင်ရိုင်း တပင်သည် အပင်တရာရှိသော သဖန်း ခြံအ တွက် လုံလောက်ပေသည်။


သဖန်းပင်နှင့် အသီးများ

အလွန် ရှေးကျသော ခေတ် အချိန်မှ စ၍ သဘော်

သဖန်းပင်ကို လူတို့ စိုက်ပျိုးခဲ့ကြောင်း သမိုင်းအထောက်အထားများရှိသည်။ ခရစ်ယန်တို့၏ သမ္မာကျမ်းစာ၌၎င်း၊ ဗုဒ္ဓဝါဒီတို့၏ ဗုဒ္ဓဝင် နိပါတ်တော်များ၌၎င်း သဖန်းပင်အကြောင်း အမှတ်အသားများ ပါရှိခဲ့သည်။ သဖန်းပင်သည် အာရှဘိုက်အနောက်ပိုင်းနှင့် ဥရောပတိုက် တောင်ပိုင်း မြေထဲပင်လယ်ဒေသ၌ စတင် ပေါက်ရောက်ခဲ့သည်။ သဖန်းပင်သည် အပူပိုင်း သစ်တောများ၌ မူလပေါက်ရောက်သည့် အပင်မျိုး ဖြစ်သဖြင့် သဖန်းပင်ကြီးများကို ထိုသစ်တောများ၌ တွေ့ရှိရလေသည်။ နွေအခါ၌ အရွက်ကြွေတတ်သော သစ်ပင်ဖြစ်သည်။ တူရကီနိုင်ငံမှ အိန္ဒိယနိုင်ငံမြောက်ပိုင်းအတွင်းရှိ နိုင်ငံများ၊ အထူးသဖြင့် မြေထဲပင်လယ်ကို ဝိုင်းရံလျက်ရှိသော နိုင်ငံများ၌လည်း သဖန်းပင်များ ကောင်းစွာ ဖြစ်ထွန်းနိုင်ကြသည်။ စပိန် နိုင်ငံ၊ အယ်လဂျီးရီးယားနိုင်ငံ၊ ဣတလီနိုင်ငံ၊ တူရကီနိုင်ငံ၊ ပေါ်တူဂီ နိုင်ငံနှင့် ဂရိနိုင်ငံတို့သည် သဖန်းပင် အများဆုံး စိုက်ပျိုးသော တိုင်းပြည်များ ဖြစ်ကြသည်။ အမေရိကန်ပြည်ထောင်စု၌ ကာလီဖိုးနီးယား၊ လူဝီဇီယန္နားပြည်နယ်များနှင့် တောင်ပိုင်းပြည်နယ်တို့တွင် ယခုအခါ စီးပွားရေးအလို့ငှာ သဖန်းပင်ကို အများအပြား စိုက်ပျိုး ကြလေသည်။ မြန်မာနိုင်ငံ မိုးပါး ရေရှား ရပ်ဝန်း၌ သဖန်းပင်ကို အသင့်အတင့် စိုက်ပျိုးကြသည်။

သဖန်းပင်များကို အကိုင်းပြတ် စိုက်နည်းဖြင့် အလွယ်တကူ မျိုးပွားယူနိုင်သည်။ သဖန်းသီးမှ ညှစ်ယူ ရရှိသော အရည်ကို လူတို့ သောက်သုံးရန်အတွက် ဖြစ်စေ၊ အထည်ဆိုးဆေးအတွက် ဖြစ်စေ အသုံးချကြသည်။ သဖန်းရွက်ဖြင့် ဆင်စွယ်ကို အရောင်ထွက်လာအောင် ပွတ်တိုက်နိုင်သည်။ သဖန်းပင်၏ အခေါက်ကိုလည်း ကြိုးကျစ်၍ရသည်။ မြန်မာဆေးကျမ်းများ အရ သဖန်းသီးစိမ်းသည် ဖန်၏။ နှုတ်ကို မြိန်စေတတ်၏။ ဝမ်းမီးကို တောက်စေတတ်၏။ ဝစေတတ်၏။ သွေးကို ပျက်စေတတ်၏။ သဖန်းသီးမှည့်သည် ချို၏။ ဖန်၏။ အေး၏။ ပိုးကို ဖြစ်စေတတ်၏။ ရက္တပိတ်နာ၊ မူးဝေသော အနာ၊ ကိုယ်ပူနာတို့ကို နိုင်၏။ ရေငတ်ခြင်းကို ပျောက်၏။ သဖန်းသီး၏ အာဟာရ တန်ဖိုးသည် သဖန်းသီးတပေါင်လျှင် ကယ်လိုရီ ၁,၅၀၀ ပါရှိသဖြင့် အလွန်ကောင်းသည်။ ပဲတပေါင်မှရသော ကယ်လိုရီထက် သုံးဆမျှ ရရှိသည်။ သဖန်းသီးတွင် ကာဗိုဟိုက်ဒရိတ် ၇၄.၂၊ ရေ ၁၈.၈၊ ပရိုတင်း ၄.၃၊ အဆီ ၀.၃ နှင့် ပြာဓာတ် ၂.၄ ရာခိုင်နှုန်းပါရှိသည်။ သဖန်းသီးစိမ်းကို ဆားရည်စိမ်၊ အမှည့်ကို အစိမ်း၊ သို့မဟုတ် ယိုထိုး၍ ဖြစ်စေ၊ အခြောက်လှန်း၍ဖြစ်စေ စားနိုင်သည်။ နိုင်ငံခြားမှ လာသော သဖန်းသီးခြောက်များကို အများအပြား စားသုံးကြသည်။ ချောင်းဆိုးသွေးပါ အဆုတ်နာရှိသူများနှင့် သင့်သည်ဟု ဆိုကြသည်။ အရွက်ကိုလည်း သုပ်စားခြင်း၊ ဟင်းချိုချက်စားခြင်းများ ပြုကြသည်။

သဖန်းသားသည် ညောင်သားကဲ့သို့ ပျော့၍ ပေါ့သည်။ အသားမှာ မွဲပြာပြာအရောင် ရှိသည်။ သဖန်းသားကို ရေနှင့်အစဉ်ထိစပ်၍ ဖြစ်စေ၊ ရေအောက်တွင် ဖြစ်စေ ထားလျှင် အတော်အတန် ကြာရှည်ခံသည်။ ထို့ကြောင့် ရေတွင်းပေါင်ခတ်ရာ၌ သဖန်းသားကို သုံးကြခြင်းဖြစ်သည်။ ယင်းအသားကို အိမ်သုံးပစ္စည်း အသေး အဖွဲ့များ၊ အဆောက် အအုံ အသင့်အတင့်များ၊ လှည်း၊ ထယ်၊ လှော်တက်များ ပြုလုပ်ရာ၌ အသုံးပြုတတ်သည်။ သဖန်းသားသည် ပျော့၍ ပေါ့သဖြင့် ပန်းပုထုရာ၌ အသုံးဝင်သည်။ မြန်မာဘုရင်များ လက်ထက်တော် အခါက ရာဇပလ္လင် ပြုလုပ်ရာ၌ ရေသဖန်းကို အသုံးပြုသည်။ တောင်စမုခ် ဆောင်တော်၌ မင်းတို့တိုင်ပင်ဆွေးနွေးရန်နှင့် အလျှုတော်ရေစက်ချရန် ပြုလုပ်ထားသော သမင်ရုပ်ခံသည့် မိဂါသနပလ္လင်ကို ရေသဖန်းသားဖြင့် ပြုလုပ်ရလေသည်။

**သဖြန်။** ။သဖြန်ဆိုသည်မှာ ပတ်ပျိုးစသော အထက်သံသီချင်းကြီးများကို ဆိုပြီးနောက် အသံကို သံမှန်သို့ ပြန်ရောက်စေရန် သီဆိုရသောသီချင်းမျိုး ဖြစ်သည်။ ယင်းသည် ပတ်ပျိုးစသော သီချင်းကြီးများ ပေါ်သည့်အခါကျမှ ပညာရှိတို့ မှည့်ခေါ်ကြဟန်တူသည်။

သဖြန်သည် အသံနှင့် အဖြန်ဟူသော စကားနှစ်လုံးကို ပေါင်းစပ် ထားခြင်း ဖြစ်၍ သီချင်း၊ သို့မဟုတ် အသံကို ပြန်စေသော သို့မဟုတ် ဖြန်ဖြေသော သီချင်းဟု အနက်ထွက်သည်။ ဒွေးချိုး၊ ဒွေးဆစ်၊လေးချိုး၊လေးဆစ်တို့သည် အဆစ်အပိုင်း အချိုးကို စွဲ၍ခေါ်သည့် အမည်ဖြစ်၍ သဖြန်သည် သီချင်းသံကို အစွဲပြု၍ မှည့်ခေါ်ထားသော သီချင်းဖြစ်သည်။ များသောအားဖြင့်မူ ဒွေးချိုး၊ လေးချိုးစပ်သီချင်းမျိုးဖြစ်သည်။ ပတ်ပျိုးအချတွင် အဆိုများသည်။

သဖြန်ဆိုရာ၌ စည်းကိုက်ဝါးကိုက် ဆိုင်းတီးနှင့် ဆိုရသည်။ လူပြိန်းတို့ အဖို့ သဖြန်သံသည် ခွန်းထောက်သံနှင့် မထူးခြားဟု ထင်ရသည်။ သို့ရာတွင် သဖြန်ကို ငါးပေါက်သံဖြင့် ဆို၍ ခွန်းထောက်ကို ပုလဲပေါက်သံဖြင့် ဆိုရသည်။ ထို့ကြောင့် ဦးပုံးချို၏ မဟာဂီတပေါင်းချုပ်၌ 'သဖြန် ငါးပေါက်၊ ခွန်းထောက်ပုလဲ ဆိုရိုးတည်း' ဟု ရေးသားထားခြင်းဖြစ်သည်။

သဖြန် အမျိုးအစား အမျိုးမျိုးရှိသည်။ ယင်းတို့မှာ (၁) သံထောက်သဖြန်၊ (၂) ခွန်းထောက်သဖြန်၊ (၃) ကွန်းထောက်သဖြန်၊ (၄) ရေလာသဖြန်၊ (၅) ရေခင်းသဖြန်၊ (၆) ပုလဲပေါက်သဖြန်တို့ ဖြစ်ကြသည်။

သံထောက်သဖြန်ဆိုသည်မှာ တက်သံ၊ သက်သံ၊ နိမ့်သံ၊ တိုင်သံ တည်းဟူသော အသံလေးသံတို့ကို တထောက်နှစ်ထောက် ရပ်နားပြီး ရွတ်ဆိုရသည့် သဖြန်မျိုးဖြစ်သည်။

ခွန်းထောက်သဖြန်ဆိုသည်မှာ သီချင်းကြီး ပြဇာတ်စကားတို့၏ အကြားဝယ် နှုတ်ခွန်းဖြင့် ထောက်ပြန်၍ ပြောဆိုမေးမြန်းရသည့် သဖြန်မျိုး ဖြစ်သည်။

ကွန်းထောက် သဖြန် ဆိုသည်မှာ ဇာတ်ပွဲသဘင်တို့၌ မင်းသား မင်းသမီးတို့ ခရီးသွားရာတွင် ယာယီ တနန်းဘုံကွန်းဆောက်၍ ရပ်နားနေသည်ကို ကွန်းထောက်နားသည်။ ကွန်းထောက်ချသည်ဟု ဆို၏။ ထိုအခါတွင် ရွတ်ဆိုရသော၊ သို့မဟုတ် ထိုသို့ ကွန်းထောက်ချသည်နှင့် အတူဖြစ်သည့် အကြောင်းအရာများကို ဖွဲ့ဆိုရသော သဖြန်မျိုးဖြစ်သည်ဟု မြန်မာစာ ညွှန့်ပေါင်းကျမ်းက ဆိုသည်။ သို့ရာတွင် ဝဇီရဗုဒ္ဓိ ဦးဖိုးစိန် အလိုအားဖြင့် ထိုသဖြန်မျိုးကို မြိုင်ထ ဖြစ်စေ၊ လွမ်းခြင်းဖြစ်စေ ဆိုပြီးမှ ဆက်လက်ဆိုကြရသဖြင့် မင်းသားကို နှုတ်ထောက်၍ လျှောက်တင်ရသော သဖြန် ဖြစ်သောကြောင့် ခွန်းထောက်သဖြန် ဟုသာ ခေါ်ဆိုထိုက်၏။ ကွန်းထောက်ခြင်း၊ စခန်းချခြင်းနှင့် မည်သို့မျှ မဆိုင်သောကြောင့် ကွန်းထောက် သဖြန် ဟုခေါ်ဆိုသည်မှာ အမှားသာဖြစ်သည်ဟု ဆိုသည်။

ရေလားသဖြန်ဆိုသည်မှာ မြစ်ချောင်း အင်းအိုင်တို့၌ ရေကစားသွားလာသည်တို့ကို စပ်ဆိုရသော သဖြန်ဖြစ်၏။

ရေခင်းသဖြန်ဆိုသည်မှာလည်း ရေပြင်ပေါ်၌ တပ်ခင်းပြီး စံစား ပျော်ပါး နေသည်ကို ဖွဲ့ဆိုသော သဖြန်မျိုးဖြစ်သည်။

ပုလဲပေါက်သဖြန် ဆိုသည်မှာ အဆက်ပါခွန်းထောက်သဖြန်ကိုပင် ပုလဲပေါက်သံဖြင့် ဆိုသည့်အခါ မှည့်ခေါ်သော အမည် ဖြစ်သည်။

သဖြန်များကို ယင်းသို့ ဖွဲ့ဆိုသော အကြောင်းအရာအလိုက် အမည်ပေးရုံသာမက စပ်နည်းနှင့် အနက်တို့ကိုလိုက်၍လည်း မှည့်ခေါ်ကြသေးသည်။ အချိုး နှစ်ချိုးရှိသော ဒွေးချိုး ရိုးရိုး ကဗျာကို မူလ ရေးရိုးရေးစဉ်ထက် အနည်းငယ်ပိုလွန်ကာ အက္ခရာလုံးရေများခြင်း၊ အပိုဒ်ရှည်ရှည်ထားခြင်းတို့ဖြင့် စီကုံးစပ်ဟပ်ခဲ့ပါလျှင် ဒွေးချိုးသဖြန်ဟု ခေါ်ကြသည်။

ပုံစံ။ အို–ရှုမောဖွယ်၊ ထားကေသွယ်၊
သည်ဝယ်ပုံသို့၊ မကြုံလေသေး။
ဖြူဝန်းငယ် ရာပြိုင်သည်၊ ညာပင်တိုင်၊
ရွှေဗွေမြင့်ငယ်ကို၊ ပြန်ခွင့်ကနေး။ ။
(မြဝတီမင်းကြီးရေး အီနောင်ဇာတ်မှဒွေးချိုးသဖြန်)

အချိုးသုံးချိုးစပ်သောကဗျာတွင် ရေးရိုးရေးစဉ်ထက် အနည်းငယ်ပိုကာစပ်ဟပ်ခဲ့ပါလျှင်တြိချိုးသဖြန်ဟုခေါ်သည်။

ပုံစံ။ သားရွှေစင်လူကလေးတို့နှင့်
အမေလေးပါ မောင့်ဖခင်၊ တိုင်းပြည်ကနှင့်။
မဆင်ခြင် ဗေဒင်ထွက်စကား။
ပုဏ္ဏား ဆရာဆိုနှင့် ဦးညိုကို ဗေဒင်ဆေးတယ်ရှင်
(အမယ်မင်း) မေးချက်ကခြား။ ။
(မုံရွာ ဆရာခ ရေး တြိချိုးသဖြန်)

အချိုးလေးချိုးပါသော လေးချိုး၊ သို့မဟုတ်လေးဆစ်ကဗျာတွင် ရေးရိုးရေးစဉ်ထက် အနည်းငယ် ပိုလွန်ကာ စပ်ဟပ်ခဲ့ပါလျှင် လေးချိုးသဖြန်၊ သို့မဟုတ် လေးဆစ် သဖြန်ဟု ခေါ်သည်။

ပုံစံ။ သူဖြူလျှင်၊ အယူဖြောင့်နိုင်ငဲ့၊ သူမှောင့်မှာ စိုးမိတယ်။
သနားယင်ဖြင့်၊ မြင့်ဖျားဟေမာနှင့်၊
ချောင်သေလာ ရွှေဝါကွေ့မှာ တောမွှေ့တော့မယ်။
မသေရုံ ရွှေဘုံကြီးမှာလ၊ သစ်သီးနှင့်ပွဲတော်တယ်၊
ဖန်ချယ်တဲ့ဝတ်လဲ။
မွေးလိုရယ်လှိုင်၊ အုပ်လုံးစမွှာယ်ကြိုင်တဲ့၊မြကေခိုင်
မင်ရည်မွှဲကို၊ ရှင်းမှဲ့ကြဲဆဲ။ ။
(လှိုင်ထိပ်ခေါင်တင်ရေး လေးဆစ်သဖြန်)

အထူးမှတ်သားရန်ကား ဒွေးချိုး၊လေးချိုးတိုင်း သဖြန်ဖြစ်နိုင်သော်လည်း သဖြန်တိုင်း ဒွေးချိုး၊ လေးချိုးဟု မဆိုနိုင်ခြင်းပင် ဖြစ်သည်။ ပုံစံအားဖြင့် မိဖုရား မမြလေးဆို ရှစ်စုံရွက်ကြာ ပတ်ပျိုးတွင် —

သနားမကြင်ရက်ကယ်မို့၊ သူထွက်ဖန်ရာဆယ်၊
ရေးနှောင်အချယ်။ အိုဘယ်ခါနေ့ငယ်မှ၊ ကိုယ်တွေ့
သည်ပူနယ်က၊ အေးလွယ်သိမှန်း။

ဟူ၍ ချထားရာ ယင်းကဗျာသည် ဒွေးချိုးလည်းမဟုတ်၊ လေးချိုးလည်း မဟုတ်ချေ။ သို့ရာတွင်သီဆိုသံကား သဖြန်သံပင် ဖြစ်သည်ကို တွေ့ရသဖြင့် သဖြန်ဟု သတ်မှတ်ရလေသည်။

**သဘာဝလေ့လာမှု။** ။သဘာဝလေ့လာမှုဆိုသည်မှာ သဘာဝလောကရှိ အရာဝတ္ထုများကို ကြည့်ရှု မှတ်သားလေ့လာခြင်းပင်ဖြစ်သည်။ သဘာဝ အလျောက် ဖြစ်တည်နေသော အရာဝတ္ထုများကို နေ့ရှိသလောက် တွေ့မြင်နေရပြီး ဖြစ်၍ သဘာဝ အကြောင်းကို တသီးတခြား လေ့လာနေရန် လိုသေးသလောဟု အချို့က ဆိုကောင်း ဆိုပေမည်။ သဘာဝနှင့် စပ်လျဉ်းသည့် အကြောင်း အချက်များကို တတ်သိပြီ အထင်နှင့် သဘာဝ လေ့လာမှု၌ စိတ်မဝင်စားပဲ နေတတ်သူများလည်း ရှိ၏။ သို့ရာတွင် နေသည်အဘယ်ကြောင့် အနောက်မှ မထွက်သနည်း။ နွေ၊ မိုး၊ ဆောင်း စသည်ဖြင့် အဘယ်ကြောင့် ရာသီဥတုများ

သီးခြားရှိရသနည်း။ ချောင်းထဲရှိ ကျောက်ခဲကလေးများသည် အဘယ်ကြောင့် လုံး၍နေရသနည်း။ နေကြာပန်းသည် အဘယ်ကြောင့် နေရှိရာဖက်သို့ မျက်နှာလှည့်ပြီး နေရသနည်း။ ကုက္ကိုရွက်ကဲ့သို့သော သစ်ရွက်တို့သည် အဘယ်ကြောင့် ညဥ့်ဖက်တွင် အိပ်ရသနည်း။ ထိကရုံးပင်ကို တို့ထိလိုက်လျှင်အဘယ်ကြောင့်အရွက်များရုံးသွားရသနည်း။ အချို့သစ်ပင်သည် တနှစ်ပတ်လုံး ပွင့်နိုင် သီးနိုင်ပါလျက် အချို့မှာ အဘယ်ကြောင့် မပွင့်နိုင် မသီးနိုင် ရသနည်း။ မည်သည့် ရာသီဥတု၌ ယင် အပေါဆုံးနည်း။ ခြတိုင်းအတောင်ပေါက်၍ ပလူ ပျံနိုင်သလော။ နကျယ်ကောင်သည် အကယ်ပင် အများထင်သည့်အတိုင်း သူတပါးသားကောင်များကို နကျယ်ဖြစ်လာအောင် ဘဝ ပြောင်းပေးသလော။ ဖားသည် ရေသတ္တဝါလော၊ ကုန်းသတ္တဝါလော။ ဥသြငှက်သည် မိမိဖာသာ အသိုက်ပြုလုပ်လေ့ ရှိသလော။ ရေမြင်းသည် မြင်းအမျိုးတွင် ပါဝင်သလော။ ဝက်အမျိုးတွင် ပါဝင်သလော။ ဝေလငါးသည် ဥမှ ပေါက်သလော။ အကောင်လိုက်ပေါက်သလော။ ဤမေးခွန်းများကို အကုန်ဖြေနိုင်သူ နည်းပေလိမ့်မည်။ အမှန်စင်စစ် သဘာဝနှင့် စပ်လျဉ်း၍ ကျွန်ုပ်တို့သည် ကောင်းစွာ သိထားကြသည် မဟုတ်ချေ။ ထို့ကြောင့် သဘာဝသည် အဆုံး အဆ မရှိအောင် ဆန်းကြယ်သည့်အတိုင်း သဘာဝ အကြောင်းကို လေ့လာ လေလေ စိတ်ဝင်စားလာလေလေ ဖြစ်သည်ကို တွေ့နိုင်ပေသည်။

သဘာဝကို လေ့လာသူတဦးသည် အချို့သော ကျေးငှက် တိရစ္ဆာန်များ၊ ပန်းမာလ်များနှင့် မြေကျောက်တို့ အမည်များကို သိရုံမျှဖြင့် မကျေနပ်နိုင်ပဲ ပြင်ပသို့ထွက်သွားတိုင်း အသစ်တွေ့သမျှကို လေ့လာလိုသည်။ ဤသို့ လေ့လာဖန်များသောအခါ အဆိုပါ အရာဝတ္ထုတို့သည် မည်သို့သော အကြောင်းများကြောင့် ဖြစ်ပေါ်ရပုံနှင့် မည်သည့် အချိန်အခါတွင် ပြန်၍ ဖြစ်ပေါ်တတ်ပုံများကိုပါ တဖြည်းဖြည်း သိသာပေသည်။ မည်သည့် အပင်သည် မည်သည့် အချိန်၌ ဖူးတတ် ပွင့်တတ်ပုံ၊ လိပ်ပြာကလေးများ၊ ပျားပိတုန်းများသည် ပန်းပွင့်များအနီး၌ မည်သည့်အတွက် ရစ်ဝဲနေကြပုံ၊စီတန်းသွားနေကြသော ပရွက်ဆိတ်များသည် မည်သည့်အရပ်သို့ သွားကြ၍ မည်သည့်အတွက်ကြောင့် ထိုကဲ့သို့ အမြဲတစေ အလုပ်များနေကြပုံ စသည်များကိုလည်း သူသည် လေ့လာ စုံစမ်းရင်း တချို့ပြီး တခုသိရှိနားလည်လာလေသည်။

သဘာဝ လေ့လာမှုကို အိမ်တွင်း အိမ်ပြင် နှစ်ဌာနစလုံး၌ ပြုလုပ်နိုင်သည်။ များသောအားဖြင့် အိမ်တွင်းမှာထက် အပြင်လောကသို့ ထွက်၍ လေ့လာသည်က များကြသည်။ သဘာဝကို နှစ်သက်လေ့လာသူ တဦးသည် ကွင်းပြင်တောတောင်နှင့် မြစ်ချောင်းကမ်းနားများ ရှိရာသို့ အချိန်ယူ၍ လှည့်လည် သွားလာလေ့ရှိသည်။ မြို့ကြီး ပြကြီးများတွင် နေထိုင်သူဖြစ်က မြို့ပြင်သို့ မထွက်နိုင်သောအခါများတွင် ဥယျာဉ်များနှင့် ခြံများသို့သွား၍ သဘာဝကို မျက်ခြည် မပြတ် လေ့လာခြင်းဖြင့် ရောင့်ရဲကြရပေသည်။

သဘာဝ လေ့လာမှုသည် သစ်ပင် ဝါးပင် သားငါး တိရစ္ဆာန် စသော သက်ရှိ ဝတ္ထုများနှင့်သာ သက်ဆိုင်သည် ဟု အချို့က ထင်မှတ်ကြသည်။ စင်စစ် သဘာဝလေ့လာမှုသည် ပတ်ဝန်းကျင် သဘာဝ၌ ရှိရှိသမျှ မည်သည့် သက်ရှိသက်မဲ့ ဝတ္ထုမျိုး၊ မည်သည့် အဖြစ်အပျက်မျိုးကို မဆို လေ့လာခြင်း ဖြစ်လေသည်။

သဘာဝကို လေ့လာသူတို့သည် တနှစ်ပတ်လုံး လေ့လာမှတ်သားလေ့ ရှိကြသည်။ များသောအားဖြင့် အတွေ့အကြုံ နည်းပါးသော အပင်များနှင့် တိရစ္ဆာန်များ အကြောင်းကို လေ့လာလေ့ ရှိကြရာ ဤသို့ လေ့လာရာတွင် အမည်များကို သိရုံသာ ပြုလုပ်ကြသည် မဟုတ်။ ငှက်အသစ်တကောင်ကို နောင်တကြိမ်ထပ်မံမြင်တွေ့သောအခါတွင် အမှတ်ရ သိရှိနိုင်အောင်လည်း ကြိုးစားကြ၏။ ငှက်၏ အရွယ်ပုံပန်း သဏ္ဌာန်၊ အရောင်အဆင်းနှင့် ထုံးစံ ဓလေ့များကိုလည်း လေ့လာ တတ်ကြ၏။ တခါတရံ အသံကြားရုံနှင့်ပင် သိနိုင်အောင်လည်း လေ့လာ ထားတတ်ကြပေသည်။ ထိုငှက်သည် မည်သည့်အမျိုး၌ ပါဝင်ပုံ၊ မည်သည့် အစာကို စား၍ မည်သည့် နေရာမျိုး၌ များသောအားဖြင့် တွေ့နိုင်ပုံ၊ မည်သည့် နေရာမျိုး၌ အသိုက် ပြုလုပ်တတ်ပုံ၊ သားငယ် သမီးငယ်များကို မည်သို့ စောင့်ရှောက် ပြုစုတတ်ပုံများကိုပါ အချိန်ကြာမြင့်စွာ စောင့်ဆိုင်း၍ လေ့လာ စုံစမ်းသူများလည်း ရှိပေသည်။

သဘာဝကို လေ့လာသူ တဦးသည် စုဆောင်း တတ်သူလည်း ဖြစ်သည်။ သူသည် ရေချိုငါးများနှင့် အပင်ကလေးများကို အနီးအနားရှိ အင်းအိုင်ချောင်းမြောင်းများမှ စုဆောင်း၍ ဖန်ရေကန်ကလေးတွင် ထည့်သားတတ်၏။ တခါတရံ ကျောက်တုံးများ၊ သတ္တုများ၊ သစ်ရွက်များ၊ တောပန်းများ၊ ရေညှိပင်များ၊ခရုခွံများကိုလည်း စုဆောင်းကာ လေ့လာတတ်သေးသည်။ သို့သော် ဤသို့ ဂုဆောင်းရာ၌ ပုံသဏ္ဌာန်များ ပျက်မသွားစေရန် အထူး ဂရုပြုဖို့လိုပေသည်။

တောတောင် ကွင်းပြင်များသို့ ခရီးထွက်ခြင်း၊ ကြက်ငှက် တိရစ္ဆာန်ကလေးများကိုမွေးမြူခြင်းစသည်တို့မှာလည်း သဘာဝကို လေ့လာသူတို့ လုပ်လေ့လုပ်ထ ရှိသော အလုပ်များပင် ဖြစ်သည်။ သဘာဝကို လေ့လာသူ အများပင် သဘာဝပစ္စည်းများကို ဓာတ်ပုံ ရိုက်ယူထားလေ့ ရှိ၍ သဘာဝ တိရစ္ဆာန်များ စောင့်ရှောက် ကာကွယ်ရေး လုပ်



ငှက်တို့ သဘာဝကို လေ့လာနိုင်ရန် ဓာတ်ပုံရိုက်ကူး မှတ်တမ်းတင်နေစဉ်

နေ်းများကိုလည်း ပြုလုပ်လေ့ ရှိကြသည်။ ကာကွယ်စောင့်ရှောက်ရေး လုပ်ငန်းတွင် ကျေးငှက် တိရစ္ဆာန်ရိုင်းများ ကျက်စားနေထိုင်ရာ စားကျက် ကွင်းပြင်များ ပြုလုပ်ပေးခြင်း၊ အစာရေစာ ရအောင် ဖန်တီးပေးခြင်း စသည်တို့ ပါဝင်လေသည်။

သဘာဝကို လေ့လာသူတိုင်းတွင် မှတ်စု စာအုပ်များ ထားရှိရန် အရေးကြီး၏။ သို့မှသာ တွေ့မြင် သိရှိသည့် အချက်များကို မပျောက်ပျက်အောင် မှတ်သားလေ့လာနိုင်ပေမည်။ ပုံကြမ်းများကိုပါ ရေးဆွဲကူးယူ ထားနိုင်လျှင် သာ၍ပင် ကောင်းသေးသည်။ မှတ်စု စာအုပ်များ ထားရှိခြင်းဖြင့် ရာသီဥတုအလိုက် အပင်နှင့် တိရစ္ဆာန်တို့ ပြုမူတတ်ပုံ အလေ့အထများကို နှစ်ရှည်လများ လေ့လာ နှိုင်းယှဉ် ကြည့်နိုင်ပေသည်။

သဘာဝသည် အလွန်စိတ်ဝင်စားဖွယ် ကောင်းသည့်အတိုင်း သဘာဝလေ့လာမှု အလုပ်ကို ဝါသနာအလျောက် လေ့လာ လိုက်စားသူများသည် တနေ့တခြား ဝါသနာ ထက်သန် လာတတ်သည်ကို တွေ့ရသည်။ ထိုအခါမျိုးတွင် သူတို့သည် ရေးမှတ်စရာ မှတ်စုစာအုပ်များ၊ ခဲတံ မင်တံ ဆေးရောင်စုံ စသော ပုံဆွဲကရိယာများ၊ ပိုးမွှားဖလံကောင်များ ဖမ်းသည့် လက်ကိုင်ပိုက်အိတ်များ၊ စုဆောင်း သိမ်းဆည်းစရာ သေတ္တာဗူးခွက်များနှင့် မကျေနပ်နိုင်တော့ပဲ အကြီးခဲ့ မှန်ဘီလူး မှန်ပြောင်း ဓာတ်ပုံရိုက်ကရိယာများကိုပင် လိုလား ရှာဖွေလာကြလေသည်။

ဤအလုပ်၌ ဝါသနာ ပါသူတို့သည် သဘာဝအကြောင်းကို ရေးသားထားသော စာအုပ်များကို လေ့လာခြင်းဖြင့် မိမိတို့ တွေ့မြင်ခဲ့ရသည်များနှင့် တူ မတူ နှိုင်းယှဉ် ကြည့်နိုင်သည်။ ဝါသနာတူချင်း နှီးနှောဆွေးနွေးခြင်းဖြင့် အသိအမြင် တိုးတက်နိုင်သည်။ သဘာဝပစ္စည်း ပြတိုက်များသို့ သွားရောက် ကြည့်ရှုခြင်းဖြင့်လည်း ဗဟုသုတ ကြွယ်ဝပြည့်စုံ နိုင်ပေသည်။

နိုင်ငံကြီးများရှိ အချို့သော မြို့ကြီး ပြကြီးများတွင် သဘာဝပစ္စည်း ပြတိုက်များ၊ တိရစ္ဆာန်ရုံနှင့် ပင်မျိုးစုံဥယျာဉ်များ ထားရှိ၍ ထိုဌာနများသို့ သွားရောက် ကြည့်ရှုခြင်း၊ ထိုဌာနများမှ ထုတ်ဝေသော စာအုပ်စာတန်းများကို ဖတ်ရှု မှတ်သားခြင်းဖြင့်လည်း သဘာဝ လေ့လာမှုဆိုင်ရာ သိမှုပညာများ တိုးပွားစေနိုင်သည်။ တောတောင် အကြောင်း၊ သစ်ပင် ပန်းပင်အကြောင်း၊ ကုန်းသတ္တဝါ ရေသတ္တဝါများ အကြောင်း စသည်တို့ဖြင့် သဘာဝ လေ့လာမှုနှင့် စပ်လျဉ်း၍ ရိုက်နှိပ်ထားသော စာအုပ်များ အများပင်ရှိရာ ထိုစာအုပ်များကို ဖတ်ကြည့်ပါက ဝတ္ထုသဖွယ် စိတ်ဝင်စားဖွယ်

ဖြစ်ရုံမက မှတ်သားစရာ အံ့ဩစရာများနှင့် ပြည့်နှက်နေသည့်အတွက် ဖတ်သူတို့အဖို့ အလွန်ကျေးဇူး များနိုင်ပေသည်။

ယခင်က ကျောင်းများ၌ပင် သဘာဝ လေ့လာမှုကို ဘာသာရပ် တခုအနေဖြင့် သင်ကြားပေးခဲ့ဘူးသည်။ သို့ရာတွင် သဘာဝကို လေ့လာသူ ကျောင်းသားများသည် သဘာဝ၏ လှပမှု ဆွဲငင်အားသို့ ယိမ်းယိုင်ပါသွားခြင်းကြောင့် အခြားဘာသာရပ်များဘွင် စိတ်မပါပဲ ဖြစ်သွားတတ်ခြင်း၊ မသေမချာ မမှန်မကန် လေ့လာ စုံစမ်းတတ်ခြင်းများကြောင့် သိပ္ပံနည်းမကျပဲ ရှိတတ်ခြင်း၊ သိပ္ပံပညာ အခြေခံရအောင် ပဌမ ပြုလုပ်ပေးသင့်ခြင်း စသည့် အကြောင်းပြချက်များကြောင့် ဤဘာသာရပ်မှာ ရှေးကကဲ့သို့ ကျောင်းများတွင် ခေတ်မစားတော့ချေ။ ဤဘာသာရပ်အစား အခြေခံသိပ္ပံ ပညာရပ်ကိုသာ ယခုအခါသင်ကြားပေးလေ့ ရှိကြလေသည်။ သို့သော် သဘာဝကို လေ့လာလိုသူ ကျောင်းသူ ကျောင်းသားများသည် ထိုသိပ္ပံပညာရပ်များမှ များစွာ အကူအညီ အထောက်အပံ့ ရနိုင်ပေသည်။

ယခုခေတ် သိပ္ပံဆိုင်ရာ သိမှုများမှာလည်း များသောအားဖြင့် သဘာဝကို ဂရုတစိုက် အပြန်အလှန် လေ့လာမှတ်သားထားသူတို့ထံမှ တဆင့်ရသောအမွေအနှစ်များပင် ဖြစ်၏။ ထင်ရှားကျော်ကြားသည့် သိပ္ပံပညာရှင်ကြီးအများမှာ သိပ္ပံနှင့် သဘာဝလေ့လာမှု ပညာနှစ်ရပ်လုံး လိုက်စားခဲ့သူများ ဖြစ်ကြပေသည်။ သဘာဝလေ့လာမှုသည် ဝါသနာပါသူများအား သဘာဝ၏ ဆန်းကြယ်မှု အမျိုးမျိုးဖြင့် အသက်ထက်ဆုံး လက်မလွှတ်နိုင်အောင်ပင် ဆွဲဆောင်ထားတတ်သည်။ ထိုသူတို့အဖို့၌ မည်သည့်နေရာတွင်မဆို အသစ်အဆန်းများ ရှိစမြဲဖြစ်၍ နေ့စဉ်နှင့်အမျှပင် အသစ်အဆန်းများသည် ပေါ်ပေါက်လျက်သာ ရှိလေသည်။

**သဘာဝတ္တဗေဒ (ဒဿနိကဗေဒ)။** ။သဘာဝတ္တဗေဒ (ဒဿနိကဗေဒ)သည် အရာရာတို့၏ သဘောတရားစစ်စစ်ကို ခွဲခြားလေ့လာ၍ သိမြင်သော ပညာရပ် ဖြစ်လေသည်။ 'သဘာဝတ္တဗေဒ ပညာရှင်' (ဒဿနိက ဗေဒ ပညာရှင်)သည် သာမန် မျက်စိဖြင့် မြင်ရသော သဘော၏နောက်ကွယ်တွင် ရှိသော တကယ့်သဘောတရားစစ်ကို လေ့လာရ၏။

ဒဿနိကဗေဒကို အင်္ဂလိပ် ဘာသာအားဖြင့် ဖီလော်ဆိုဖီ ဟူ၍ ခေါ်သည်။ ဖီလော်ဆိုဖီ ဆိုသော စကားမှာ ဂရိစကား နှလုံးမှ ပေါက်ပွားလာသော စကား ဖြစ်၏။ ဂရိစကားတွင် 'ဖီလီအင်' ဆိုသော စကားနှင့် 'ဆိုဖီယား' ဟူသော စကားနှစ်လုံး ရှိလေသည်။ ဖီလီအင် ဆိုသည်မှာ နှစ်သက်ခြင်းဟု အဓိပ္ပါယ်ဆောင်လျက် ဆိုဖီယား ဆိုသည်မှာ အသိပညာ ဟူ၍ အဓိပ္ပါယ်ရလေသည်။ ထိုကြောင့် ဖီလော်ဆိုဖီ ဆိုသည်မှာ အသိပညာကို နှစ်သက်ခြင်းဟု ဆိုလိုပေသည်။

ဖီလော်ဆိုဖီကို လေ့လာသူ ဂယောက်အား ဖီလော်ဆိုဖာ ဟူ၍ ခေါ်၏။ဖီလော်ဆိုဖာ တယောက်၏ တာဝန်မှာ အမှန်တရားကို သာမန် မျက်မြင်တရားမှ ခွဲခြား၍ လေ့လာရခြင်း ဖြစ်သည်။

အကြမ်း သဘောအားဖြင့် ကြည့်လျှင် ဒဿနိကဗေဒမှာ နှစ်မျိုးနှစ်စား ရှိလေသည်။ ယင်းတို့မှာ 'အရှေ့တိုင်း ဒဿနိကဗေဒ' နှင့် 'အနောက်တိုင်း ဒဿနိကဗေဒ' တို့ဖြစ်သည်။

အရှေ့တိုင်း ဒဿနိကဗေဒနှင့် အနောက်တိုင်း ဒဿနိကဗေဒတို့ ထူးခြားချက်မှာ အရှေ့တိုင်း ဒဿနိကဗေဒသည် အနောက်တိုင်း ဒဿနိကဗေဒထက် ဘဝနှင့် ပိုမိုနီးစပ်လေသည်။ အဘယ့်ကြောင့် ဆိုသော် အရှေ့တိုင်း ဒဿနိကဗေဒသည် ဘာသာရေးနှင့် နီးကပ်စွာ တည်ရှိသောကြောင့် ဖြစ်သည်။ ပညာအနေအားဖြင့် ကြည့်ပါမူ အနောက်တိုင်း ဒဿနိကဗေဒသည် အရှေ့တိုင်း ဒဿနိကဗေဒထက် စံနစ်ဖွဲ့ပုံ၌ ပိုမိုစံနစ်ကျသည် ဆိုလျှင် မှားမည် မဟုတ်ပေ။ အကြမ်းသဘောအားဖြင့် ဆိုရပါမူ အရှေ့တိုင်း ဒဿနိကဗေဒသည် လူတို့၏ ဒုက္ခပယ်ဖျက်ရေးကို အဓိကထားလျက် အနောက်တိုင်း ဒဿနိကဗေဒသည် စကြဝဠာကြီး၏ ပုံကားချပ်ကို အဓိကထား၍ လေ့လာလေသည်။

အရှေ့တိုင်း ဒဿနိကဗေဒသမိုင်း(အထူးသဖြင့် အိန္ဒိယ ဒဿနိကဗေဒသမိုင်း)ကို လေ့လာကြည့်လျှင် ယင်း ဒဿနိကဗေဒ စတင်ပေါ်ပေါက်လာသော ခုနှစ်ကို တိကျစွာ သတ်မှတ်ဖော်ပြရန် ခက်လေသည်။အနောက်တိုင်း ဒဿနိကဗေဒမူ သေးလီး ဆိုသော ဂရိပညာရှိကြီးမှ စတင်ပေါက်ပွားလာလေသည်။ သေးလီးသည် အနောက်တိုင်း ဒဿနိကဗေဒ၏ ဖခင်ကြီးဖြစ်လျက် ဘီစီ ခြောက်ရာစုခန့်တွင် ပေါ်ပေါက်သော ဒဿနိကဗေဒ ဆရာတဦးဖြစ်လေသည်။

ဒဿနိကဗေဒကို အမျိုးမျိုးသော နည်းများဖြင့် လေ့လာနိုင်သည်။ ဤတွင် ဤဘာသာရပ်ကို သုံးပိုင်း ပိုင်း၍ လေ့လာရမည်။ ယင်းတို့မှာ (၁) တန်ဖိုးများကို လေ့လာသော ဒဿနိကဗေဒ၊ (၂) မျက်မြင်လောကကို ကျော်လွန်လျက် မပြောင်းလဲသော အမှန်သဘောကို လေ့လာသော 'မက်တာဖစ်ဆစ်'ဟု ခေါ်သည့် ပရမတ္ထပညာ ဆိုင်ရာ ဒဿနိကဗေဒ၊ (၃) ဆင်ခြင်မှု အခြေခံ သဘောအသိမှန် သဘောတို့ကို လေ့လာသော 'မက်သောဒေါလိုဂျီ' ဟု ခေါ်သည့် ဒဿနိက ဗေဒ ဟူ၍ ဖြစ်လေသည်။

(၁) တန်ဖိုးများကို လေ့လာသော ဒဿနိက ဗေဒ။ ယင်းပညာရပ်ကို ထပ်မံ၍ နှစ်စား ခွဲနိုင်လေသည်။ (က) သဘာဝ အလှ၊ လူဖန်တီးမှု အလှတို့၏ သဘောကို လိုက်လံ၍ စုံစမ်း စစ်ဆေး ဝေဖန်ခြင်းကို ပြုသော 'အက်စသက်တစ်' ဟုခေါ်သည့် အလှအဆိုပညာ ဆိုင်ရာ ဒဿနိက ဗေဒ ပညာခွဲတရပ်၊ (ခ) လူတို့၏ အကျင့်သီလနှင့် စပ်လျဉ်း၍ အခြေခံ သဘော အဝဝကို လိုက်လံရှာဖွေဝေဖန်ခြင်းကို ပြုသော 'အက်သစ်' ဟုခေါ်သည့် လောကနီတိဆိုင်ရာ ဒဿနိကဗေဒ ပညာခွဲတရပ်တို့ ဖြစ်လေသည်။

(၂) 'မက်တာဖစ်ဆစ်'ခေါ်သော မျက်မြင်လောကကို ကျော်လွန်၍ မပြောင်းလဲသော အမှန်တရားကို ရှာသော ဒဿနိကဗေဒ။ ယင်းပညာရပ်တွင်လည်း ပညာခွဲ နှစ်ရပ်ပါဝင်သည်။ (က)'အွန်တောလိုဂျီ'ဟု ခေါ်သော ကမ္ဘာကြီးတခုလုံး၏ အခြေခံ သဘောတရားများ၏ အဓိပ္ပါယ်ကို လေ့လာသော ယထာဘူတ ဗေဒ၊ •ပုံပမာ-ဤပညာရပ်တွင် 'ရုပ်' ဆိုသည်မှာ အဘယ်နည်း၊ 'စိတ်'ဆိုသည်မှာ အဘယ်နည်း၊'ဘဝ'ဆိုသည်မှာ အဘယ်နည်း စသော မေးခွန်းများကို မေး၍ ဖြေကြားခြင်း ပြုလေသည်။ ထိုမှတဆင့်တက်၍လည်း စိတ်နှင့်ရုပ် ရှိသည့်အနက် စိတ်သည် ရုပ်ထက် အခြေခံ ကျသလော၊ ရုပ်သည် စိတ်ထက် အခြေခံကျသလော ဟူသော မေးခွန်းများကိုလည်း မေး၍ ဖြေကြားခြင်း ပြုလေသည်။ ဤပညာရပ်သည် မျက်မြင်ပြောင်းလဲနေသော သဘော၏ နောက်ကွယ်၌ မပြောင်းလဲသော သဘောတရားကို ရှာသည် ဟု အချုပ်အားဖြင့် ဆိုသော် မှားမည် မဟုတ်ပေ။ (ခ) 'ကောစမောလိုဂျီ' ဟု ခေါ်သော ဗဟိဒ္ဓလောကဗေဒသည် စကြဝဠာကြီး တခုလုံး၏ ပုံကားချပ်ကို ဘာသာရပ် အသီးအသီးတို့၏ အခြေခံ သဘောများ၊ နိယာမများကို အမှားအမှန်စိစစ်ပြီး စုပေါင်း၍ ရေးဆွဲခြင်း ပြုလေသည်။

(၃) ဆင်ခြင်မှု အခြေခံ သဘော အသိမှန် သဘောကို လေ့လာသော 'မက်သောဒေါလိုဂျီ'ဟု ခေါ်သည့် ဒဿနိကဗေဒ။ ဤပညာရပ်ကိုလည်း ပညာခွဲ နှစ်ရပ် ထပ်၍ ခွဲနိုင်လေသည်။ (က) 'အပစ်ဘီမိုလိုဂျီ' ခေါ် သိမှုဗေဒ။ ယင်းကို လေ့လာခြင်းအားဖြင့် ကမ္ဘာကြီး အကြောင်း၊ စကြဝဠာကြီးအကြောင်းကို လေ့လာရာ၌ လိုအပ်လှသော အသိဉာဏ်၏ အရင်းအမြစ်ကို သိနိုင်လေသည်။ ပုံစံအားဖြင့် ကမ္ဘာကြီးအကြောင်း၊ စကြဝဠာကြီး အကြောင်းများကို လေ့လာရာ၌ လက်တွေ့သဘောကို အခြေခံထားသင့်သလော၊ သို့မဟုတ် တွေးခေါ်မှုကို အခြေခံ ထားသင့်သလော ဟူသော မေးခွန်းများကို မေးလျက် ဤဘာသာခွဲတွင်ဖြေကြားခြင်းပြုလေသည်။ (ခ) 'ယုတ္တိဗေဒ' ဟူသော ပညာရပ်မှာ တွေးခေါ်ကြံဆခြင်းတို့၏ အခြေခံသဘောကို လေ့လာလေသည်။ ယုတ္တိဗေဒတွင် သာမညဆင်ခြင်ခြင်းနှင့် ဝိသေသဆင်ခြင်ခြင်း ဟူ၍ ရှိပြန်လေသည်။ ပေးထားချက်များထက် ကျော်လွန်ခြင်း မပြုပဲ ဆင်ခြင်ခြင်းကို သာမညဆင်ခြင်ခြင်း ဟု ခေါ်လျက် ပေးထားချက်များထက် ကျော်လွန်၍ ဆင်ခြင်ခြင်းကို ဝိသေသ ဆင်ခြင်ခြင်းဟု ခေါ်လေသည်။

တဖန် ဒဿနိကဗေဒကို သမိုင်း သဘောအားဖြင့် ကြည့်လျှင် အရှေ့တိုင်း ဒဿနိကဗေဒတွင် အိန္ဒိယနိုင်ငံ၌ ထင်ပေါ် ကျော်ကြားသော 'ချာရဝါက'၊ 'ဂျိန္န'၊ 'ဗုဒ္ဓ ဒဿနိကဗေဒ'၊ 'နျာယ'၊ 'ဗိုင်ရှိရှိကာ'၊ 'သံချာ(သံချာ)'၊ 'ယောဂ'၊ 'မိမံသ'၊ 'ဝေဒန္တ' ဟူသော ဒဿနိက ဗေဒများကိုရင်း၊ တရုပ် နိုင်ငံ၌ ထင်ပေါ်ကျော်ကြားသော 'တာအိုဝါဒ'နှင့်၊ 'ကွန်ဖူဗီးဝါဒ' တို့ကိုရင်း တွေ့ရမည် ဖြစ်လေသည်။

အနောက်တိုင်း ဒဿနိကဗေဒ သမိုင်းကိုမူ သုံးပိုင်းခွဲခြား၍ ကြည့်နိုင်လေသည်။ ယင်းတို့မှာ (၁) ရှေးဂရိခေတ်၊ (၂) အလယ်ခေတ်နှင့် (၃) ခေတ်သစ်နှင့် မျက်မှောက်ခေတ်ဟူ၍ ဖြစ်လေသည်။

(၁) ရှေး ဂရိခေတ်တွင် ထင်ပေါ် ကျော်ကြားဆုံးသော ဒဿနိကဗေဒ ပညာရှင်ကြီးများမှာ ဆိုကရေးတီး၊ ပလေးတိုနှင့် အယ်ရစ္စတိုတယ်တို့ ဖြစ်ကြလေသည်။ အယ်ရစ္စတိုတယ်သည် ပလေးတို၏တပည့်ဖြစ်၍ ပလေးတိုသည် ဆိုကရေးတီး၏ တပည့်ဖြစ်လေသည်။ ပလေးတိုသည် စဉ်းစား ဆင်ခြင်ခြင်းသဘောအားဖြင့် အမှန်တရားကို သိနိုင်သည်ဟု ဆို၍ အယ်ရစ္စတိုတယ်ကမူ လက်တွေ့ သဘော၏ အရေးကြီးပုံကိုလည်း ဖော်ပြလေသည်။ (ဆိုကရေးတီး။ ပလေးတို။ အယ်ရစ္စတိုတယ် — လည်းရှု။)

(၂) အလယ်ခေတ်တွင်မူ ထင်ရှားကျော်ကြားသော ဒဿနိကဗေဒ ပညာရှင် များမှာ စိန်ဩဂတ်စတင်၊ စိန်တောမတ် အကွိုင်းနပ်၊ အုတ်ခမ်မှ ဝီလျံစသည်တို့ ဖြစ်လေသည်။ ဤခေတ်တွင် ဒဿနိကဗေဒ ပညာရှင်များသည် ခရစ်ယန်အယူဝါဒနှင့် ဂရိဒဿနိကဗေဒတို့ကို စံနစ်တကျ ပေါင်းစပ်၍ တွေးခေါ်ခြင်းအမှုကို ပြုကြသည်။

(၃) ခေတ်သစ် ဒဿနိကဗေဒမှာမူ ဖရန်စစ်ဗေကင်၊ ဒေးကာ့ အစရှိသော ဒဿနိကဗေဒ ပညာရှင်ကြီးများမှ စတင် ပေါ်ပေါက်လာလေသည်။ ခေတ်သစ်တွင် ဒဿနိကဗေဒ ပညာရှင်ကြီးများ၏ အဓိက ရည်ရွယ်ချက်မှာ ခရစ်ယန် အယူဝါဒ၊ ဂရိဒဿနိကဗေဒနှင့် ခေတ်သစ် သိပ္ပံပညာများကို စံနစ်တကျ ဖွဲ့စည်းပေးရန် မြစ်လေသည်။ (ဗေကင်,ဖရန်စစ်။ဒေးကာ့ — လည်းရှု။)

ဤခေတ်သစ်ကို (က) ရှေးကျသော ခေတ်သစ်၊ (ခ) မျက်မှောက်ခေတ်ဟူ၍ နှစ်ပိုင်းခွဲခြားခြင်းအားဖြင့် လေ့

လာရာ၌ လွယ်ကူနိုင်လေသည်။ ရှေးကျသော ခေတ်သစ်တွင် ဗေကင်၊ ဒေးကတ်တို့အပြင် အခြား ကျော်ကြားကြ•သော ဒဿနိကဗေဒ ပညာရှင်ကြီးအချို့ကို ဖော်ပြရသော် ဂျွန်လော့၊ ဂျော့ ဗာကလေ၊ ဒေးဗစ် ဟယ္မ်း၊ ဆပင်နိုဇာ၊ လိုက်ဗနစ်၊ ကန့်၊ ဟေးဂဲ စသည်တို့ကို တွေ့ရပေမည်။ (ဆပင်နိုဇာ, ဗီ။ကန့်, အိုင် — လည်းရှု။)

ဤခေတ်ကြီး၏ အဓိကအချက်မှာ စကြဝဠာကြီးတခုလုံးကို စံနစ်ဖွဲ့ပြီး လေ့လာခြင်းပင်ဖြစ်သည်။

( ၁ ) ဤခေတ်၏များစွာသော ဒဿနိကဗေဒပညာရှင်များသည် စကြဝဠာကြီးတခုလုံးကို စံနစ်ဖွဲ့ခြင်းအားဖြင့် နားလည်နိုင်သည်ဟု ယူဆကြလေသည်။မျက်မှောက်ခေတ် ဒဿနိကဗေဒ ပညာရှင်ကြီးများကား စကြဝဠာကြီး တခုလုံး အကြောင်းကို လုံးဝဥဿုံနားလည်ရန် မဖြစ်နိုင်၊ စကြဝဠာကြီးတခုလုံးနှင့် စပ်လျဉ်း၍ စံနစ်မဖွဲ့နိုင်ဟု ယူဆကြလေသည်။ မျက်မှောက်ခေတ်တွင် ဒဿနိကဗေဒပညာရှင်များသည် သိပ္ပံပညာကို မှတ်ကျောက်အဖြစ် ထားကြလေသည်။

မျက်မှောက်ခေတ်တွင် ပေါ်ထွန်းကြသော ဒဿနိကဗေဒများအနက် ကျော်ကြားသော ဒဿနိကဗေဒ နှစ်မျိုးကို ယူကြည့်လျှင် 'လောဂျစ်ကယ် ပေါ်စစ်တစ်ဗစ်ဝါဒ' နှင့်'မတ်ဝါဒ'တို့ကို တွေ့ရပေလိမ့်မည်။

လောဂျစ်ကယ် ပေါ်စစ်တစ်ဗစ်ဝါဒ နှင့် မတ်ဝါဒ၊ နှစ်ခုစလုံးပင် သိပ္ပံပညာကို မှတ်ကျောက်အဖြစ် ထားကြလေသည်။ မတ်ဝါဒသည် သိပ္ပံပညာကို အခြေခံထားလျက် လူမှုအဆောက်အဦကို အဓိကထားကာ လေ့လာလေသည်။ လောဂျစ်ကယ် ပေါ်စစ်တစ်ဗစ် ဝါဒသည် လူမှု အဆောက်အဦထက် သိပ္ပံပညာ၏ အခြေခံသဘောများကို တက္ကနည်းကျကျဖြင့် ဝေဖန် သုံးသပ်လေသည်။

အခြားသောခြားနားချက်တခုမှာ မတ်ဝါဒသည် အနုပဋိလောမနည်းကို သုံးလျက် ရုပ်ဝါဒကိုယုံကြည်လေသည်။ လောဂျစ်ကယ် ပေါ်စစ်တစ်ဗစ် ဝါဒသည် အနုပဋိလောမနည်းကိုလည်း မသုံး၊ ရုပ်ဝါဒကိုလည်း ယုံကြည်သည်ဟု မဆိုပေ။

ဤဝါဒများအပြင် မျက်မှောက်ခေတ်တွင် ထွန်းကားကြသော အခြားသော ဝါဒများမှာ "အိပ်စစ်တင်ရှယ်လစ်ဇင်"ဟု ခေါ်သော 'ရှိမှု ဖြစ်မှု'ကို မူရင်းအခြေခံအဖြစ် ထားရှိသောဝါဒ၊ "ပရက်မက်တစ်ဇင်"ဟူသော 'အောင်မြင်ခြင်း'မှာ 'မှန်ကန်မှု၏'မှတ်ကျောက်ဖြစ်သည်ဟု ဆိုသောဝါဒ၊ "ရီယယ်လစ်ဇင်"ဟူသော စိတ်ကမ္ဘာ၊ ရုပ်ကမ္ဘာ နှစ်ခုရှိကြသည်ဟု ယုံကြည်သောဝါဒ စသည်ဖြင့် အသီးအသီးလည်း ရှိကြလေသေးသည်။

ဒေါက်တာ ဦးခင်မောင်ဝင်း

**သမတများ၊ နိုင်ငံတော်။** ။ပြည်ထောင်စု မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးသည်မှစ၍ ၁၉၆၂ ခုနှစ် မတ်လ ၂ ရက်နေ့တွင် ပြည်ထောင်စု မြန်မာနိုင်ငံ တော်လှန်ရေး ကောင်စီက အုပ်ချုပ်ရေးကို လွှဲပြောင်းယူလိုက်သည့် အချိန်အထိ ၁၄ နှစ် လေးလအတွင်း မြန်မာနိုင်ငံ၏အထွတ်အထိပ်သည် နိုင်ငံတော်သမတ ဖြစ်ခဲ့သည်။

၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့တွင် မြန်မာနိုင်ငံသည် အချုပ်အခြာအာဏာပိုင် လွတ်လပ်ရေး ရသည်နှင့် တပြိုင်နက် နိုင်ငံတော်အထွတ်အထိပ် ယာယီသမတအဖြစ် တိုင်းပြည်ပြု လွှတ်တော်ဥက္ကဋ္ဌကြီး ညောင်ရွှေစော်ဘွားကြီး စဝ်ရွှေသိုက်အား တင်မြှောက်ခဲ့သည်။၁၉၅၂ ခုနှစ်တွင် ပဌမအကြိမ် ရွေးကောက်ပွဲကြီး ကျင်းပပြီးသောအခါ ပါလီမန်



ပဌမဆုံးသော ယာယီသမတကြီး စဝ်ရွှေသိုက်

လွှတ်တော် နှစ်ရပ်ပေါင်း ညီလာခံမှ တရားဝန်ကြီးချုပ် ဦးဘဦးအား ပဌမဆုံးသော သမတအဖြစ် ရွေးကောက်တင်မြှောက်ခဲ့သည်။ ၁၉၅၇ ခုနှစ်တွင် ပဌမ သမတရာထူး သက်တမ်း ကုန်ဆုံးသောအခါ ကရင်အမျိုးသား ခေါင်းဆောင် အစိုးရ အဖွဲ့ဝင် ဝန်ကြီး ဦးဝင်းမောင်အား သမတ အဖြစ် ရွေးကောက် တင်မြှောက်ခဲ့လေသည်။

**စဝ်ရွှေသိုက်** (ခရစ် ၁၈၉၆–၁၉၆၂)။ ။စဝ်ရွှေသိုက်သည် နတ်ရွာစံ ညောင်ရွှေစော်ဘွားကြီး ဆာစဝ်မောင်နှင့် မဟာဒေဝီတို့မှ ခရစ် ၁၈၉၆ ခုနှစ် (မြန်မာ ၁၂၅၇ ခုနှစ်)


နိုင်ငံတော် သမတကြီး ဒေါက်တာ ဦးဘဦး

တွင် ဖွားမြင်သည်။ ငယ်စဉ်က တောင်ကြီးမြို့ရှိ ရှမ်းစော်ဘွားများ ကျောင်းတွင် ပညာသင်ကြားပြီးနောက် ပဌမကမ္ဘာစစ်အတွင်းက ဘားမားရိုင်ဖယ် အင်္ဂလိပ်စစ်တပ်တွင် ဝင်ရောက် အမှုထမ်းသည်။ ၁၉၂၀ ပြည့်နှစ်မှ ၁၉၂၃ ခုနှစ် အတွင်း မြန်မာနိုင်ငံ အရှေ့မြောက်နယ်ခြားဒေသ၌ မြန်မာစစ်အရာရှိ တာဝန်ခံအဖြစ် ခန့်အပ်ခြင်း ခံရသည်။ ၁၉၂၉ ခုနှစ်တွင် ခမည်းတော် ကံကုန်သောအခါ ညောင်ရွှေစော်ဘွားအဖြစ် အရိုက်အရာ ခံယူသည်။ စစ်ပြီးသောအခါ စစ်မှုထမ်းအဖြစ်မှ အနားယူလိုက်သော်လည်း ၁၉၃၉ ခုနှစ်တွင် ဒုတိယကမ္ဘာစစ် စစ်ရိပ်စစ်ငွေ့များ တက်လာသောအခါ စစ်မှုထမ်းရန် ပြန်ခေါ် ခံရပြန်သည်။

၁၉၄၇ ခုနှစ် ဇွန်လတရက်နေ့တွင် မြန်မာနိုင်ငံတိုင်းပြည်ပြုလွှတ်တော် ဖွင့်လှစ်သောအခါ စဝ်ရွှေသိုက်အား ဥက္ကဋ္ဌအဖြစ် တင်မြှောက်ကြသည်။ ၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့တွင် လွတ်လပ်ရေးရသောအခါ ပဌမဆုံးသော ယာယီသမတကြီးအဖြစ် တင်မြှောက်ခြင်း ခံရသည်။ ၁၉၅၂ ခုနှစ် မတ်လ ၁၂ ရက်နေ့တွင် သမတသက်တမ်းကုန်ဆုံးသောအခါ လူမျိုးစုလွှတ်တော် နာယကကြီးအဖြစ် ရွေးချယ် တင်မြှောက်ခံရပြန်ရာ ၁၉၆၀ ပြည့်နှစ်အထိ ဖြစ်သည်။ စော်ဘွားကြီး၏ အမျိုး ဘာသာ သာသနာ ပညာတွင် ကြိုးပမ်းအားထုတ်မှုကြောင့် နိုင်ငံအစိုးရက စဝ်ရွှေသိုက်အား အဂ္ဂမဟာသရေစည်သူဘွဲ့နှင့် အဂ္ဂမဟာသီရိသုဓမ္မဘွဲ့ဖြင့် ချီးမြှင့်ခဲ့သည်။ ၁၉၅၉ ခုနှစ် ဧပြီလ ၂၉ ရက်နေ့တွင် အခြားနယ်ရှင်စဝ်ဖလုံတို့နှင့်အတူ အာဏာစွန့်လွှတ်ခဲ့သည်။

၁၉၆၂ ခုနှစ် မတ်လ ၂ ရက်နေ့တွင် တော်လှန်ရေးကောင်စီက အုပ်ချုပ်ရေးကို လွှဲပြောင်း ယူလိုက်သောအခါ ထိန်းသိမ်းထားခြင်း ခံရသည်။ ထိုသို့ ထိန်းသိမ်းခံနေရစဉ်မှာပင် ၁၉၆၂ ခုနှစ် နိုဝင်ဘာလ ၂၁ ရက်နေ့တွင် ကွယ်လွန်သည်။ သိန္နီစော်ဘွား၏ နှမတော် စင်ဟိန်ခမ်းအား မဟာဒေဝီ တင်မြှောက်ခဲ့ရာ သားတော် သမီးတော် ရှစ်ယောက် ထွန်းကားသည်။

**ဒေါက်တာ ဦးဘဦး (ခရစ် ၁၈၈၇–၁၉၆၃)။** ။ဒေါက်တာ ဦးဘဦးသည် အရေးပိုင်ဦးဘိုးလှ၊ စီအိုင်အီး၊ ကေအက်အမ်၊အောတီ အမ်နှင့် ဒေါ်ညွန့်တို့မှ ခရစ် ၁၈၈၇ ခုနှစ် မေလ ၂၆ ရက်နေ့တွင် ပုသိမ်မြို့၌ ဖွားမြင်သော သားအကြီးဆုံးဖြစ်သည်။ ငယ်စဉ်က ပုသိမ်မြို့ မူလတန်းကျောင်းတွင်၎င်း၊ မအူပင်မြို့ အစိုးရ အလယ်တန်းကျောင်းတွင်၎င်း၊ ပုသိမ်မြို့ အစိုးရ အထက်တန်း ကျောင်းတွင်၎င်း၊ ရန်ကုန်မြို့ အစိုးရ အထက်တန်းကျောင်းတွင်၎င်း အဆင့်ဆင့် ပညာသင်ကြားခဲ့သည်။ ထို့နောက် ရန်ကုန် ကောလိပ်သို့ တက်ရောက်၍ တက္ကသိုလ် ပညာများကို သင်ယူပြီးသော် ၁၉၀၇ ခုနှစ်တွင် အင်္ဂလန်ပြည် ကိမ်းဗရစ် တက္ကသိုလ်သို့ သွားရောက် ပညာသင်ယူသည်။ ၁၉၁၂ ခုနှစ်တွင် ကိမ်းဗရစ် တက္ကသိုလ်မှ မဟာဝိဇ္ဇာဘွဲ့ထူးကို ဆွတ်ခူးရရှိပြီးနောက် ၁၉၁၃ ခုနှစ်တွင် ဝတ်လုံစာမေးပွဲကို အောင်မြင်သည်။

၁၉၂၂ ခုနှစ် ဧပြီလတွင် ရန်ကုန်မြို့၌ အစိုးရအမှုလိုက်ရှေ့နေအဖြစ် ဝင်ရောက် ထမ်းရွက်သည်။ ထိုနှစ် ဒီဇင်ဘာလတွင် ဖျာပုံခရိုင် စက်ရှင်တရားသူကြီးအဖြစ် ဆောင်ရွက်ခဲ့ရ၍ ထိုမှတဆင့် တောင်ငူ၊ မကွေး၊ မြောင်းမြ၊ မအူပင်ခရိုင်များတွင် ခရိုင်စက်ရှင် တရားသူကြီးအဖြစ် ဆောင်ရွက်ခဲ့ရလေသည်။ ၁၉၃၀ ပြည့်နှစ် ဖေဖွာရီလတွင် တရားလွှတ်တော် တရားဝန်ကြီးအဖြစ် ခန့်အပ်ခြင်း ခံရသည်။ ထိုနှစ် စက်တင်ဘာလတွင် ရန်ကုန်ခရိုင် စက်ရှင်တရားသူကြီး အဖြစ်၎င်း၊ နိုဝင်ဘာလတွင် အင်းစိန်ခရိုင် စက်ရှင် တရားသူကြီးအဖြစ်၎င်း၊ ၁၉၃၁ ခုနှစ်တွင် အထူးခုံရုံးအဖွဲ့ဝင်အဖြစ်၎င်း၊ ၁၉၃၂ ခုနှစ် ဧပြီလအထိ အင်းစိန်၊ ပြည်၊ သရက်ခရိုင်များ၏ စက်ရှင်တရားသူကြီးနှင့် အထူးတရားသူကြီးအဖြစ်၎င်း ခန့်အပ်ခြင်း ခံရသည်။ ထို့နောက် ၁၉၃၂ ခုနှစ် ဧပြီလတွင် တရားလွှတ်တော် တရားဝန်ကြီးအဖြစ် အမြဲတမ်းတိုးမြှင့် ခန့်ထားခြင်း ခံရသည်မှာ ဒုတိယ ကမ္ဘာစစ် ဖြစ်သည်အထိ ဖြစ်သည်။ တရားဝန်ကြီးအဖြစ် ဆောင်ရွက်နေစဉ် ၁၉၃၇ ခုနှစ်တွင် ရွေးကောက်ပွဲဆိုင်ရာ အထူးခုံရုံးဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ရသည်။ ၁၃၀၀ ပြည့် ကျောင်းသား အရေးတော်ပုံ စုံစမ်းရေး ခုံရုံးဥက္ကဋ္ဌအဖြစ်လည်း

ဆောင်ရွက်ရသည်။ ဂျပန်ခေတ်တွင် တရားလွှတ်တော်ချုပ် တရားဝန်ကြီးအဖြစ် ထမ်းရွက်ရသည်။ စစ်ပြီးသောအခါမှစ၍ ၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၃ ရက်နေ့အထိ တရားလွှတ်တော် တရားဝန်ကြီးအဖြစ် ဆောင်ရွက်ရသည်။ မြန်မာနိုင်ငံ လွတ်လပ်ရေး မရမီကလေးတွင် ဗြိတိသျှအစိုးရတို့က ဆာဘွဲ့ဖြင့် သူကောင်းပြုသည်။ အာရှအရှေ့တောင်ပိုင်းဆိုင်ရာ မဟာမိတ်ဘက်ဖွဲ့ သေနာပတိ လော့မောင့်ဗက်ဘန် မြန်မာနိုင်ငံသို့ လာသောအခါ ဆာဘဦးသည် အိုရီယင့်ကလပ် ဥက္ကဋ္ဌအဖြစ်ဖြင့် ညှော်ခံယင်း မြန်မာနိုင်ငံအား ကိုယ်ပိုင် အုပ်ချုပ်ရေးပေးရန် စကားဆိုခဲ့ဘူးသည်။ ပြည်ထောင်စု ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ ရေးဆွဲရာ၌လည်း ဆာဘဦးသည် ထိရောက်စွာ ဝင်ရောက် ဆောင်ရွက်ခဲ့သည်။

၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့တွင် မြန်မာနိုင်ငံ လွတ်လပ်ရေး ရသောအခါ ဆာဘဦးအား တရားလွှတ်တော်ချုပ် တရားဝန်ကြီးချုပ်အဖြစ် တင်မြှောက်ကြသည်။ ထိုသို့ ဆောင်ရွက်နေစဉ် ဒေသဆိုင်ရာ အုပ်ချုပ်မှု စုံစမ်းရေးကော်မီတီနှင့် ရွေးကောက်ပွဲ ကြီးကြပ်ရေး ကော်မရှင်တို့တွင် ဥက္ကဋ္ဌအဖြစ် ထမ်းရွက်ရသည်။ ၁၉၅၂ ခုနှစ် မတ်လ ၁၃ ရက်နေ့တွင် နိုင်ငံတော် သမတကြီးအဖြစ် လွှတ်တော်နှစ်ရပ်ပေါင်းက တညီတညွတ်တည်း တင်မြှောက်ခံရသည်။ နိုင်ငံတော်အစိုးရက ဆာဘဦးအား အဂ္ဂမဟာ သရေစည်သူနှင့် အဂ္ဂမဟာသီရိသုဓမ္မဘွဲ့များကို ချီးမြှင့်၍ ရန်ကုန်တက္ကသိုလ်က ဥပဒေပါရဂူ(ဒေါက်တာ)ဘွဲ့ ချီးမြှင့်သည်။ သမတအဖြစ် တင်မြှောက် ခံရသည့် နေ့မှစ၍ ဆာဘွဲ့ကို စွန့်လွှတ်သည်။ ၁၉၅၇ ခုနှစ်တွင် သမတရာထူး သက်တမ်းကုန်ဆုံးသောအခါ အငြိမ်းစားယူသည်။ ၁၉၆၀ ပြည့်နှစ်တွင် နိုင်ငံတော် အစိုးရ အကြံပေး အဖွဲ့ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ရသည်။

ဒေါက်တာ ဘဦးသည် ၁၉၁၃ ခုနှစ်တွင် ခရိုင်တရားသူကြီးဟောင်း ဦးအောင်ဇံ၏ သမီး ဒေါ်ဒေါ်ငြိမ်းနှင့် လက်ထပ်ရာ သားနှစ်ယောက် ထွန်းကားသည်။ ၁၉၂၂ ခုနှစ်တွင် ဒေါ်ဒေါ်ငြိမ်း ကွယ်လွန်၍ ၁၉၂၃ ခုနှစ်တွင် ရိက္ခာတော်ရ အရေးပိုင် ဦးဘိုးဖေ၏ သမီး ဒေါ်ဒေါ်အေးနှင့် လက်ဆက်ရာ သမီးသုံးယောက်၊ သားနှစ်ယောက်ရရှိသည်။ ၁၉၄၁ ခုနှစ်တွင် ဒေါ်ဒေါ်အေး ကွယ်လွန်သည်။

ဒေါက်တာ ဦးဘဦးသည် လူမှုဝန်ထမ်း လုပ်ငန်းများဖြစ်သော ကြက်ခြေနီအသင်း၊ ပြည်သူ့သူနာပြုအဖွဲ့၊ တက္ကသိုလ် ရန်ပုံငွေ အဖွဲ့၊ ပန်းဥယျာဉ်အသင်း စသည်တို့၏ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ခဲ့သည်။ ၁၉၅၇ ခုနှစ်တွင်''ကျွန်ုပ်၏ မြန်မာနိုင်ငံ''ခေါ် ကိုယ်တိုင်ရေး အတ္ထုပ္ပတ္တိ စာအုပ်ကို အင်္ဂလိပ်ဘာသာဖြင့် ရေးသား ထုတ်ဝေခဲ့သည်။ ၁၉၆၃ ခုနှစ် နိုဝင်ဘာလ ၉ ရက်နေ့တွင် ကွယ်လွန်သည်။



ဦးဝင်းမောင်သည် ၁၉၅၇ ခုနှစ်မှ ၁၉၆၂ ခုနှစ် မတ်လ ၂ ရက်နေ့အထိ နိုင်ငံတော် သမတကြီးအဖြစ် ဆောင်ရွက်ခဲ့သည်။

**ဦးဝင်းမောင်(ခရစ် ၁၉၁၆ ခု ဖွား)။** ။ဦးဝင်းမောင်သည် ပုသိမ်ခရိုင်၊ ကျုံပျော်မြို့နယ်၊ လှည်းဆိပ်ရွာ၌ ၁၉၁၆ ခုနှစ် ဧပြီလ ၁၇ ရက်နေ့တွင် ဖွားမြင်သည်။ ငယ်စဉ်က ပုသိမ်မြို့ အစိုးရ အထက်တန်းကျောင်းတွင် ပညာသင်ကြားခဲ့ပြီးနောက် တက္ကသိုလ်ဝင်တန်းကို အောင်မြင်သောအခါ ရန်ကုန်တက္ကသိုလ် ယုဒသန် ကောလိပ်တွင် တက်ရောက် သင်ယူသည်။ ယုဒသန်ကောလိပ်မှ ၁၉၃၇ ခုနှစ်တွင် ဝိဇ္ဇာဘွဲ့ထူးကို ဆွတ်ခူးရရှိပြီးနောက် ဘီအိုစီကုမ္ပဏီတွင် ဝင်ရောက် လုပ်ကိုင်သည်။

၁၉၄၀ ပြည့်နှစ်အထိ ဦးဝင်းမောင်သည် အစိုးရရုံးများတွင် လုပ်ကိုင်ခဲ့ပြီးနောက် ထိုနှစ်တွင်ပင် စစ်ဘက်သို့ဝင်၍ ဒုဗိုလ် အဆင့်အတန်းဖြင့် အမှုထမ်းရာ၊ ၁၉၄၂ ခုနှစ်တွင် ဗြိတိသျှတို့ မြန်မာနိုင်ငံမှ ဆုတ်ခွာသည်အထိ ဖြစ်သည်။ ၁၉၄၃ ခုနှစ်တွင် ဗိုလ်ချုပ်အောင်ဆန်းနှင့် သခင်သန်းထွန်းတို့ ခေါင်းဆောင်သော ဖ-တ-ပ-လအဖွဲ့ချုပ်သို့ဝင်၍ ကိုယ်ဖိရင်ဖိ ဆောင်ရွက်သည်။ ဂျပန်ခေတ်ဖြစ်သော ၁၉၄၄ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့တွင် ဖ-တ-ပ-လ အဖွဲ့ချုပ်၏ စေလွှတ်ချက်အရ အိန္ဒိယနိုင်ငံသို့ တိတ်တဆိတ် ထွက်ခွာသွားကာ ကာလကတ္တားမြို့နှင့် ကိုလံဗိုမြို့များရှိ စစ်ဘက္ကသိုလ်များ၌ ပြောက်ကျားစစ်ဆင်နည်းနှင့်တကွ စစ်တက်စစ်ဆင်နည်းများကို လက်တွေ့ သင်ယူခဲ့သည်။

ဂျပန် တော်လှန်ရေးကြီး မပြုလုပ်မီ ရက်သတ္တပတ် အနည်းငယ်ခန့်ဖြစ်သော ၁၉၄၅ ခုနှစ် မတ်လထဲတွင် မြန်မာနိုင်ငံ၌ တော်လှန်ရေးကြီးကို ဝင်ရောက် ဆောင်ရွက်ရန် တောင်ငူမြို့ အရှေ့ဖက် တနေရာတွင် လေထီးနှင့် ဆင်းရာ အခန့်မသင့်သဖြင့် ခြေကျိုးသွားလေသည်။ ဒဏ်ရာကို ပဓာနမထားပဲ အကင်းမသေမီပင် တော်လှန်ရေးတွင် ကရင်-မြန်မာ ပြောက်ကျားများအား ထိုဒေသတွင် နှစ်လခန့် ဦးစီးပြီးမှ အိန္ဒိယနိုင်ငံ ကာလကတ္တားမြို့သို့ တဖန်သွားရောက် ဆေးကုသရသဖြင့် ခြေထောက်တဖက် အနည်းငယ်နိမ့်သည့်အကျိုး ယခုတိုင် ရရှိနေလေသည်။

၁၉၄၅ ခုနှစ် အောက်တိုဘာလတွင် မြန်မာနိုင်ငံသို့ ပြန်ရောက်သောအခါ နိုင်ငံရေးတွင် ဝင်ရောက် ဆောင်ရွက်သည်။ ကွယ်လွန်သူ မန်းဘခိုင် ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်သော ကရင်လူငယ်များ အစည်းအရုံးတွင် ဒုတိယ ဥက္ကဋ္ဌအဖြစ် တင်မြှောက်ခံရသည်။ (ဘစိုင်းမန်း — လည်းရှူ။) အစည်းအရုံးမှ ထုတ်ဝေသည့် တိုင်းရင်းသား ဂျာနယ် အယ်ဒီတာအဖြစ်ဖြင့်လည်း ဆောင်ရွက်ရသည်။

၁၉၄၇ ခုနှစ် ဧပြီလ ၁၁ ရက်နေ့တွင် တိုင်းပြည်ပြု လွှတ်တော် ရွေးကောက်ပွဲ ကျင်းပသောအခါ မန်းဝင်းမောင်သည် ပုသိမ်မြောက်ပိုင်းအမတ်အဖြစ် ရွေးကောက် တင်မြှောက်ခံရသည်။ ထိုနှစ် ဇူလိုင်လ ၂၂ ရက်နေ့တွင် အစိုးရအဖွဲ့ဝင် သတ္တုတွင်းနှင့် အလုပ်သမားဌာန ဝန်ကြီးအဖြစ် ခန့်အပ်ခြင်း ခံရသည်။ ၁၉၅၀ ပြည့်နှစ် ဧပြီလ ၂ ရက်နေ့တွင် သယ်ယူပို့ဆောင်ရေးနှင့် လမ်းပန်း ဆက်သွယ်ရေးဝန်ကြီးအဖြစ် ပြောင်းလဲ ဆောင်ရွက်ရပြန်သည်။ ၁၉၅၁ ခုနှစ် အထွေထွေ ရွေးကောက်ပွဲကြီး ကျင်းပသောအခါ မန်းဝင်းမောင်သည် မအူပင်တောင်ပိုင်း မဲဆန္ဒနယ်မှ ပြည်သူ့လွှတ်တော်အမတ်အဖြစ် ရွေးကောက် တင်မြှောက်ခံရသည်။ ၁၉၅၂ ခုနှစ် မတ်လ ၁၆ ရက်နေ့တွင် အစိုးရသစ်ဖွဲ့စည်းသော အခါ မန်းဝင်းမောင်ကို သယ်ယူ ပို့ဆောင်ရေးနှင့် လမ်းပန်း ဆက်သွယ်ရေးဝန်ကြီးအဖြစ် ခန့်အပ်သည်။

၁၉၅၆ ခုနှစ် အထွေထွေ ရွေးကောက်ပွဲကြီး၌လည်း မန်းဝင်းမောင်သည် မအူပင် တောင်ပိုင်းနယ်မှ ပြည်သူ့လွှတ်တော်အမတ်အဖြစ် ပြန်လည် ရွေးကောက် ခံရပြီးနောက် အစိုးရအဖွဲ့ဝင် ရေကြောင်းနှင့် မြို့ပြ လေကြောင်းဌာနဝန်ကြီးအဖြစ် ထမ်းရွက်ရသည်။ ယင်းသို့ ဆောင်ရွက်စဉ် နိုင်ငံတော် သမတအဖြစ် ဆောင်ရွက်နေသော ဒေါက်တာဦးဘဦး၏ ရာထူးသက်တမ်း ကုန်ဆုံးသောအခါ ၁၉၅၇ ခုနှစ် မတ်လ ၁၃ ရက်နေ့တွင် ဦးဝင်းမောင်အား ပါလီမန်လွှတ်တော် နှစ်ရပ်ပေါင်းက နိုင်ငံတော် သမတအဖြစ် တညီတညွတ်တည်း တင်မြှောက်ကြသည်။ နိုင်ငံတော် အစိုးရက သမတကြီးဦးဝင်းမောင်အား အဂ္ဂမဟာသီရိသုဓမ္မဘွဲ့ကို ချီးမြှင့်ပေးအပ်သည်။ ၁၉၆၂ ခုနှစ် မတ်လ ၂ ရက်နေ့တွင် ပြည်ထောင်စု မြန်မာနိုင်ငံ တော်လှန်ရေး ကောင်စီက အုပ်ချုပ်ရေးကို လွှဲပြောင်းယူသည့်နေ့အထိ ဦးဝင်းမောင်သည် နိုင်ငံတော် သမတကြီးအဖြစ် ဆောင်ရွက်ခဲ့သည်။

# ဆိုရှယ်လစ် စီးပွားရေးစံနစ်၏ ဒုတိယမဏ္ဍိုင်

**အမြတ်ကြီးရမှု မရှေးရှု၊ ရင်းနှီးငွေပေါ် အခြေမပြု၊ စေတနာအရင်းခံရသော မဇ္ဈိမပဋိပဒါလုပ်ငန်း၊ လောကီ ငြိမ်းချမ်းရေးသည် သမဝါယမ၏ ပန်းတိုင်၊ သမဝါယမသဘောတရား၊ သမဝါယမလုပ်ငန်း၏ အခြေခံဝါဒ ဆယ်ရပ်၊ သမဝါယမအသင်းအမျိုးမျိုး၊**

**သမဝါယမ လုပ်ငန်း။** ။စီးပွားရေး၌ အောက်တန်းကျနေကြသော လူတစုသည် မိမိတို့အား ထိုသို့ အောက်တန်းကျအောင် ဖန်တီးနေသော စီးပွားရေး စံနစ်မျိုးကို အစားထိုးရန် အတူတကွ ပူးပေါင်း လုပ်ကိုင်သော လုပ်ငန်းကို သမဝါယမ လုပ်ငန်းဟု ခေါ်သည်။ ထိုသို့ လုပ်ကိုင်ရာ၌ တဦးစီ၏ ကောင်းကျိုးအတွက် ဝိုင်းဝန်းကူညီဆောင်ရွက်လိုသော လူအများ၏ စေတနာနှင့် အများ ကောင်းကျိုးအတွက် ဆောင်ရွက်လိုသော လူတဦးစီ၏ စေတနာမျိုး ပါဖို့လိုသည်။

သမဝါယမကို အင်္ဂလိပ် ဘာသာဖြင့် 'ကို အော့ပရေးတစ်'ဟု ခေါ်သည်။ 'အတူတကွ'၊ သို့မဟုတ် ပါဠိဘာသာဖြင့် 'သမ'ဟု အဓိပ္ပာယ်ရသော 'ကို'ဟူသည့် အင်္ဂလိပ်စကားလုံးနှင့် ဆောင်ရွက်သော၊ သို့မဟုတ် ပါဠိဘာသာဖြင့် ဝါယမဟု အဓိပ္ပာယ် ရသော 'အော့ပရေးတစ်' ဟူသည့် အင်္ဂလိပ်စကားလုံး နှစ်လုံးကို ပေါင်းထားခြင်းဖြစ်၍ အတူတကွ လုပ်ကိုင်ဆောင်ရွက်ခြင်းဟု ဆိုရပေမည်။

သမဝါယမလုပ်ငန်း ဆိုသည်မှာ လောကီ မဇ္ဈိမပဋိပဒါလုပ်ငန်းရပ်ပင် ဖြစ်၏။ တနည်းအားဖြင့် ဆိုရသော် သမဝါယမလုပ်ငန်းသည် လောဘ၊ ဒေါသ၊ မောဟဖြင့် ခပ်ကြမ်းကြမ်း လုပ်ရသည့် လုပ်ငန်းလည်း မဟုတ်၊ အရိယာများမှသာ ပယ်ဖြတ်နိုင်သည့် လောဘ၊ ဒေါသ၊ မောဟကို အတင်း ပယ်ဖြတ်ပြီး အသာအယာ လုပ်ရသည့် လုပ်ငန်းမျိုးလည်း မဆိုသာ၊ ထိုလုပ်ငန်း နှစ်ခုကြားရှိ လုပ်ငန်းဖြစ်၍ မဇ္ဈိမပဋိပဒါ လုပ်ငန်းဟု ခေါ်ခြင်း ဖြစ်သည်။ အ



၁၁၁၇၆

ခြား တနည်းဖြင့် ပြောရမည်ဆိုသော် သမဝါယမလုပ်ငန်းသည် စီးပွားရေး မပါပဲ ဝံသာနုရက္ခိတခေါ် အမျိုးသားစောင့်ရှောက်ရေးလုပ်ငန်း သက်သက်လည်း မဟုတ်၊ စီးပွားရေး တခုတည်းကိုသာ ရှေးရှုပြီး လုပ်ကိုင်သော လုပ်ငန်းဟူ၍လည်း မဆိုသာ၊ ယင်း နှစ်ခုစပ်ကြားတွင် ရှိသော မဇ္ဈိမပဋိပဒါ လုပ်ငန်းဖြစ်သည်။ ထိုကြောင့် သမဝါယမလုပ်ငန်းကို ဒီမိုကရေစီ နိုင်ငံရော ကွန်မြူနစ် နိုင်ငံများကပါ လက်ခံ ဆောင်ရွက်နေကြခြင်း ဖြစ်သည်။ အချုပ်အားဖြင့် ဆိုရသော် သမဝါယမ လုပ်ငန်းသည် ငွေရင်းကို အခြေခံ မပြု၊ အမြတ်ကြီးရမှုကို ရှေးမရှု၊ လူအဖြစ်ကို အခြေခံပြုပြီးလျှင် အချင်းချင်း ပေါင်းသင်း ဆက်ဆံရေး တိုးတက်မှု၊ ကိုယ်ကျင့်တရား မပျက်ပြားမှုနှင့် ဝေစားမျှစား စီးပွားရေး တိုးတက်မှုကိုသာ ရှေးရှုသော လုပ်ငန်းဖြစ်သည်။

သမဝါယမ လုပ်ငန်းများ စံနစ်တကျ မထွန်းကားမီ အခါက ကုန်လုပ်ရေး အင်အားစုတွင် (၁) မြေပိုင်ရှင်၊ (၂) အလုပ်သမား၊ (၃) အရင်းရှင်နှင့် (၄) ကုန်သည်များ ပါဝင်သဖြင့် ကုန်ထုတ်မှုမှ ထွက်ပေါ်သော အကျိုးအမြတ်ကို ထိုအင်အားစုက သာလျှင် ဝေခြမ်းလျက် (၁) မြေပိုင်ရှင်က မြေခကို ယူစေ၊ (၂) အလုပ်သမားကလုပ်ခကိုယူစေ၊ (၃) အရင်းရှင်က အတိုးကို ယူစေ၊ (၄) ကုန်သည်က အမြတ်ကိုယူစေ ဟု ဘောဂဗေဒ ပညာရှင်များက ဆုံးဖြတ်ကြသည်။ သို့ရာတွင် သမဝါယမ ပညာရှင်များကမူ ကုန်တခုဖြစ်မြောက်ရေးတွင် ပဌမအင်အားစု သုံးစု ပါဝင်ကြသည်မှာ အမှန်ပင်ဖြစ်သော်လည်း ကုန်ပေါ်မှ အကျိုးအမြတ် ဖြစ်ထွန်းအောင် ဆောင်ရွက်ရာတွင် ကုန်ရောင်းသော ကုန်သည် ဈေးသည်များသာ ပါဝင်ကြသည် မဟုတ်။ ကုန် စားသုံးသူများက စားသုံးမှသာလျှင် ထိုအကျိုးအမြတ် ဖြစ်ပေါ်နိုင်သည်ဟု ဆိုကြသည်။ ထိုကြောင့် အကျိုးအမြတ် ဖြစ်ပေါ်သော ဘောဂကို ခွဲဝေလျှင် ကုန်စားသုံးသူများပါ ရထိုက်သည်ဟု ဆိုသည်။ ထိုကြောင့် စားသုံးသူများပါ အကျိုးခံစားခွင့်ရသော သမဝါယမလုပ်ငန်း ပေါ်ပေါက်လာလေသည်။

### သမဝါယမအစ

ရှေးပဝေဏီကပင် သမဝါယမလုပ်ငန်းကိုကိုယ့်နည်းနှင့်ကိုယ် လုပ်ဆောင် ခဲ့ကြကြောင်း အထောက်အထားများ တွေ့ရသည်။ တရုပ်နိုင်ငံတွင် သမိုင်းပေါ်စကပင် သမဝါယမ လုပ်ငန်းများ ရှိခဲ့ကြောင်းဖြင့် အချို့ သမဝါယမ ပါရဂူများက ဆိုသည်။ ရုရှနိုင်ငံတွင်လည်း လွန်ခဲ့သည့် နှစ်ပေါင်း ၁,၀၀၀ ကျော်ကပင် 'မား' ဟု ခေါ်သော လယ်ယာ ပြဿနာ ဖြေရှင်းရေး ကျေးလက်အဖွဲ့များနှင့် အာတယ်' ဟုခေါ်သော လက်မှုပညာ ကုန်လုပ်သူများ၏ အသင်းများ ရှိခဲ့သည်။ ထိုအတူ ယူဂိုစလားဗီးယား နိုင်ငံမှ 'ဇာဒဂရု'များ၊ ဆွစ်ဇာလန် နိုင်ငံမှ 'ဖရူတီယာ'များ၊ အိုင်ယာလန် နိုင်ငံမှ 'နေဘ' များနှင့် အိန္ဒိယနိုင်ငံမှ 'နိဒိ' များလည်း သမဝါယမ လုပ်ငန်းဆောင်ရွက်သောအဖွဲ့အစည်းများ ဖြစ်ကြသည်။ လူတို့သည် စပေါင်း စိုက်ပျိုးရိတ်ခူး ရောင်းဝယ်သည့် အလေ့ကို ရှေးနှစ်ပေါင်း များစွာကပင် လုပ်ကိုင်ခဲ့ကြသည်မှာ မှန်၏။ သို့ရာတွင် ထိုသို့ဝိုင်းဝန်းလုပ်ကိုင်သူတိုင်း ယင်းလုပ်ငန်းမှ အကျိုးအမြတ်ကို ညီတူညီမျှ ခံစားထိုက်သည်ဟု အချို့က ယူဆကြသည်။ အချို့ကမူ လုပ်ငန်းမှ အကျိုးအမြတ် ခံစားလိုက ခံစားလိုသူတိုင်း လုပ်ငန်းတွင် အစုဝင်၍ လုပ်ငန်းမှ ထွက်ကုန်ကို ထိုသူတို့ပင် ဝိုင်းဝန်း စားသုံးသင့်သည်ဟု ဆိုသည်။ ဤအဆိုပြုချက်များသည် လက်တွေ့ လုပ်ကြည့်သည့် အခါ မဖြစ်နိုင်ဟု အချို့က ဆိုကြပြန်သည်။ အလုပ်သမားရော စားသုံးသူတို့ပါ အကျိုးခံစားနိုင်ခွင့် ရှိစေမည့် လုပ်ငန်းမျိုးကို ဗြိတိသျှအလုပ်ရုံပိုင်ရှင် ရောဗတ် အိုဝင် (ခရစ် ၁၇၇၁–၁၈၅၈) ဆိုသူက စတင်လုပ်ကိုင်လိုက်သည်။ သူနှင့် တခေတ်တည်း၌ပင် ဒေါက်တာဝီလျံကင်း ဆိုသူ ဗြိတိသျှလူမျိုး သမားတော်ကြီးသည် "ကိုအော့ပရေးတား" ခေါ် မဂ္ဂဇင်းတစောင် ရေးသားထုတ်ဝေလေသည်။ ထိုမဂ္ဂဇင်း၌ အလုပ်သမားများသည် သူတို့၏ စက်များကို သူတို့ပိုင်သင့်ကြောင်းဖြင့် အထောက်အထားပြ၍ ရေးသားထားလေသည်။ ဤသည်တို့ကား မျက်မှောက်ခေတ် သမဝါယမလုပ်ငန်းအစ ဖြစ်ချေသည်။ ၁၈၄၄ ခုနှစ်က အင်္ဂလန်ပြည် ရော့ခဒေးမြို့တွင် ရက်ကန်းသမား ၂၈ ဦးက ဒေါ်လာငွေ ၁၄၀ စု၍ တည်ထောင်သော သမဝါယမဆိုင်သည် မျက်မှောက်ခေတ် သမဝါယမလုပ်ငန်း၏ ပဌမဆုံးသော စားသုံးသူ သမဝါယမဆိုင် ဖြစ်သည်။

### မြန်မာ့သမဝါယမ

မြန်မာနိုင်ငံသို့မူ ၁၉၀၄ ခုနှစ်ကမှ သမဝါယမလုပ်ငန်း စတင်ရောက်ရှိလာသည်ဟု ဆိုရပေမည်။ မြန်မာနိုင်ငံကို ဗြိတိသျှတို့ သိမ်းပိုက်ပြီးနောက် အိန္ဒိယနိုင်ငံ၏ လက်အောက်တွင် ပြည်နယ် တနယ်အဖြစ် ထားရှိလေသည်။ အိန္ဒိယနိုင်ငံ တောင်သူလယ်သမားများသည် ၁၈၈၀ ပြည့်နှစ်ခန့်တွင် စီးပွားရေး ကြပ်တည်းမှုနှင့် အပြင်းအထန်ကြုံတွေ့ ကြပြီးလျှင် အစာ ငတ်မွတ် ခေါင်းပါးသည့် ဒုဗ္ဘိက္ခန္တရကပ် ဆိုက်ရောက်၍ သေဆုံး ပျက်စီးကြလေသည်။ ထိုအခါ အိန္ဒိယနိုင်ငံ အစိုးရသည် စိုက်ပျိုးရေး စုံစမ်းမှုအဖွဲ့တခု ဖွဲ့၍ အစီရင်ခံစာ တင်သွင်းစေသည်။ သို့ရာတွင် ထိုအဖွဲ့၏ အစီရင်ခံစာကို မကြေနပ်သဖြင့် ၁၉၀၀ ပြည့်နှစ်တွင် စုံစမ်းရေးအဖွဲ့တခု ထပ်မံ ခန့်ထားရပြန်သည်။ ထိုအဖွဲ့က ဂျာမနီနိုင်ငံမှ 'ရိုက်ဖဲဆင်'အသင်းမျိုး တည်ထောင်

ရန် အကြံပေးသည်ကို လက်ခံ၍ အိန္ဒိယတနိုင်ငံလုံးတွင် သမဝါယမ အသင်းများ တည်ထောင်ရန် ဥပဒေ ပြုရေး အတွက် အက်ဒွပ် လောအား ဥက္ကဋ္ဌပြု၍ ကော်မတီတခု ဖွဲ့လေသည်။ ထိုကော်မတီမှ ရေးဆွဲပေးသော အက်ဥပဒေကို ၁၉၀၄ ခုနှစ်တွင် သမဝါယမ ငွေစုငွေချေး အသင်းများဆိုင်ရာ အက်ဥပဒေဟူ၍ အတည်ပြုကာ အိန္ဒိယ တနိုင်ငံလုံးနှင့် သက်ဆိုင်စေသည်။ ယင်းသို့ဖြင့် အိန္ဒိယ နိုင်ငံ၏ ပြည်နယ်တနယ်ဖြစ်သော မြန်မာနိုင်ငံသို့ ထိုနှစ်မှ စ၍ သမဝါယမ ငွေစုငွေချေးအသင်း အက်ဥပဒေ ရောက်ရှိလာလေသည်။ ထိုအက်ဥပဒေအရ သမဝါယမမင်းကြီး တဦး ခန့်ထားကာ ပဌမဦးစွာ ငွေချေးအသင်း ၁၂ သင်း တည်ထောင်သည်။ ၁၉၀၈ ခုနှစ်အကုန်တွင် အသင်း ၈၁ သင်း အထိတိုးတက်လာခဲ့သည်။

မြန်မာနိုင်ငံ သမဝါယမ ငွေချေးလုပ်ငန်းတွင် ကျေးလက် လယ်ယာ ဆိုင်ရာ ငွေချေးလုပ်ငန်းနှင့် မြို့မငွေချေးလုပ်ငန်းဟူ၍ နှစ်ပိုင်းရှိရာ ၁၉၂၃–၂၄ ခုနှစ်များတွင် ကျေးလက်လယ်ယာဆိုင်ရာ ငွေချေးအသင်းပေါင်း ၄,၂၁၁ သင်း ရှိလေသည်။ သို့ရာတွင် ထိုအသင်းများ၏ လုပ်ငန်းမှာ ၁၉၂၇ ခုနှစ်ကစ၍ သိသိသာသာ ဆုတ်ယုတ် ပျက်ပြားခဲ့လေသည်။ အစိုးရခန့် အရာရှိများ ဦးရေ နည်းသဖြင့် အသင်းတသင်းသို့ အရာရှိတဦးသည် လေးနှစ်ခန့် ကြာမှ တကြိမ်ရောက်နိုင်ခြင်း၊ အသင်းလူကြီးအချို့၏ စည်းကမ်း ဥပဒေ မစောင့်စည်းခြင်း၊ အသင်းသားများ စည်းကမ်း ပျက်ခြင်း၊ ကမ္ဘာ့စီးပွားရေး ကြပ်တည်းမှု စတင်ဖြစ်ပွားနေခြင်းတို့ကြောင့်ဖြစ်သည်။ အသင်းသားများက သက်ဆိုင်ရာ အသင်းများသို့ ချေးငွေ ပြန်မဆပ်နိုင်ရာမှ အစ မန္တလေးဘဏ်ကြီးကို ဖျက်သိမ်းရသည်အထိ ရောက်ရှိသွားလေသည်။ ယင်းသို့ တဖြည်းဖြည်း အသင်းများပါ ဖျက်သိမ်းလိုက်ရသောအခါ ၁၉၃၆ ခုနှစ်တွင် ကျေးလက် လယ်ယာ ငွေချေးအသင်း ၁,၇၄၉ သင်းသာ တည်တံ့ကျန်ခဲ့လေသည်။

၁၉၄၁ ခုနှစ် ဒုတိယကမ္ဘာစစ် မဖြစ်မီအတွင်းပြုပြင်ရေး စီမံကိန်းများ ရေးဆွဲဆောင်ရွက်ရန် ကြိုးပမ်းသော်လည်း စစ်ဖြစ်လာသဖြင့် အကျိုးရှိသင့်သလောက် မရှိချေ။

၁၉၄၂ ခုနှစ်မှ ၁၉၄၅ ခုနှစ်အတွင်း ဂျပန်တို့ သိမ်းပိုက်ထားစဉ် ဆန်များများ ထွက်လိုဇောနှင့် ဂျပန်တို့သည် မြို့နယ်တိုင်းတွင် သမဝါယမ ငွေစုငွေချေးနှင့် စုပေါင်းရောင်းဝယ်ရေးအသင်းများ တည်ထောင်စေသည်။ အစိုးရ အနေနှင့်လည်းအသင်းများသို့ငွေလေးသန်းမှငါးသန်းအထိ ချေးခဲ့သည်။ သို့ရာတွင် ထိုလုပ်ငန်းသည် ၁၉၄၄ ခုနှစ်ရောက်မှ အစပျိုးနိုင်ခဲ့သဖြင့် ဂျပန်ခေတ်တွင် ကျေးလက် ငွေချေးနှင့် စုပေါင်းရောင်းဝယ်ရေးအသင်းပေါင်း ၂၅၀ ခန့် ဖွဲ့စည်းနိုင်ခဲ့သည်မှ အပ ထူးထူးထွေထွေ အောင်မြင်ခြင်း မရှိခဲ့ချေ။

၁၉၄၆ ခုနှစ်တွင် ဖ၊ ဆ၊ ပ၊ လ၊ အဖွဲ့ချုပ်ကြီး၏ကြိုးပမ်းချက်ဖြင့် နိုင်ငံတွင်းရှိ လူငယ်လူရွယ်ကလေးများအား သမဝါယမသင်တန်းများပေးခြင်း၊ နယ်တွင် သမဝါယမစုပေါင်းရောင်းဝယ်ရေးအသင်းများ ဖွဲ့စည်းခြင်းပြုခဲ့သည်။ ၁၉၄၇ ခုနှစ်၌ ဆိုရှယ်လစ်ပီလာစီမံကိန်း ရေးဆွဲခဲ့ရာ တနိုင်ငံလုံးတွင် သမဝါယမ အသင်းများ တည်ထောင်ရန် စီမံကိန်းတခုလည်း ပါဝင်လေသည်။ ထိုစီမံကိန်းအရ ဆောင်ရွက်ရာ တနှစ်အကြာ ၁၉၄၈ ခုနှစ် ဒီဇင်ဘာလ ၃၁ ရက်နေ့တွင် မှတ်ပုံတင်ပြီး ကွန်ကိုးပေါင်း ၇,၀၅၇ သင်း ရှိ၍ အသင်းဝင်ပေါင်း သုံးသန်းခွဲ ရှိလာလေသည်။ အစိုးရ သမဝါယမဌာနကလည်း သမဝါယမအသင်းများ မှတ်ပုံတင်ခြင်း၊ စာရင်းစစ်ခြင်း၊ အထွေထွေ အုပ်ချုပ်ခြင်းတို့ကိုဆောင်ရွက်သည်။ ထို့နောက် မကြာမီ နိုင်ငံတော်သမဝါယမနှင့် ကုန်စည်ဖြန့်ဖြူးရေး ဘုတ်အဖွဲ့ကြီးနှင့် ခရိုင်သမဝါယမနှင့် ကုန်စည်ဖြန့်ဖြူးရေးအဖွဲ့များ ပေါ်ပေါက်လာလေသည်။

ထိုဘုတ်အဖွဲ့ကြီးက နိုင်ငံအတွင်း၌ သမဝါယမအဖွဲ့ချုပ်ကြီးတခု စိနစ်တကျဖြစ်ပေါ်လာရေးအတွက် သမဝါယမ စီမံကိန်းတခု ရေးဆွဲကာ ၁၉၅၁ ခုနှစ်တွင် အစည်းအဝေးကြီး ကျင်းပအတည်ပြုလေသည်။ ယင်းစီမံကိန်းကို သမဝါယမ ငါးနှစ်စီမံကိန်းဟု ခေါ်သည်။ ၁၉၅၁ ခုနှစ် ဧပြီလတွင် အသစ် ဖွင့်လှစ်သော အစိုးရ သမဝါယမ ဝန်ကြီးဌာနက ထိုစီမံကိန်းကို အကောင်အထည်ဖော် ဆောင်ရွက်သွားလေသည်။ ၁၉၅၃ ခုနှစ် ဧပြီလတွင် တဖန် သမဝါယမပြည်လုံးကျွတ်ညီလာခံ ခေါ်၍ ငါးနှစ်စီမံကိန်းကိုအခြေအနေနှင့် ကိုက်ညီနိုင်သမျှ ကိုက်ညီအောင် ပြုပြင်ကြသည်။

ယင်းစီမံကိန်းအရ သမဝါယမ လုပ်ငန်း၏ စည်းရုံးရေး၊ စုံစမ်းစစ်ဆေးရေး၊ ပညာပေးရေးကိစ္စများကို ပြည်ထောင်စု သမဝါယမကောင်စီက ဆောင်ရွက်၍ စီးပွားရေး ကိစ္စများကို ပြည်ထောင်စု လက်ကားသမဝါယမ အဖွဲ့ချုပ်၊ ပြည်ထောင်စု ယက်ကန်းလက်ကားအဖွဲ့၊ ပြည်ထောင်စု အင်းလက်ကားအဖွဲ့ စသည်တို့က ဆိုင်ရာဆိုင်ရာဆောင်ရွက်ကြသည်။ ပြည်ထောင်စု သမဝါယမ ကောင်စီ လက်အောက်တွင် ခရိုင်သမဝါယမကောင်စီ၊ မြို့နယ် သမဝါယမ ကောင်စီများရှိ၍ ပြည်ထောင်စု လက်ကားသမဝါယမ အဖွဲ့ချုပ်အောက်တွင်လည်း ခရိုင်လက်ကားအဖွဲ့၊ မြို့နယ် လက်ကားအဖွဲ့များရှိသည်။ ယင်းသို့ ဆောင်ရွက်ခဲ့ကြရာ ၁၉၅၅ ခုနှစ် ဇူလိုင်လ ၃၁ ရက်နေ့အတွင်း မှတ်ပုံတင်ပြီး သမဝါယမ အသင်းပေါင်း ၁၁,၉၈၅ သင်း ရှိ၍ ၁၉၆၁ ခုနှစ် ဇွန်လတွင် မှတ်ပုံတင်ပြီး သမဝါယမ အသင်းပေါင်း ၁၄,၇၇၅ သင်း ရှိသည်ကို တွေ့ရသည်။

သမဝါယမ ပညာပေးရေးအတွက် နိုင်ငံတော် အစိုးရတို့က သမဝါယမကျောင်းကိုလည်း ဖွင့်လှစ်၍ သမဝါယမဌာနဌ် အမှုထမ်းသူများအား သင်တန်းပေးလေသည်။ ခရိုင်ဝန် ရုံးစိုက်မြို့များသို့လည်း လှည့်လည်၍ ရက်တိုသင်တန်းများပေးလေသည်။ စီးပွားရေးသမဝါယမ ပညာကိုလည်း နိုင်ငံတွင်းရှိ အစိုးရကျောင်းများ၌ တက္ကသိုလ်ဝင်တန်းများတွင် သင်ကြားပို့ချပေးလေသည်။

**သမဝါယမသဘောတရား**

သမဝါယမလုပ်ငန်းသည် အမည်နှင့်လိုက်အောင် ထူးခြားသော သဘောတရားကိုလည်း ဆောင်လျက်ရှိသည်။ ယင်း၏ ထင်ရှားသော သဘောတရားများမှာ အောက်ပါအတိုင်းဖြစ်သည်။

(၁) ဤလုပ်ငန်းအားဖြင့် ထွက်ပေါ်လာသော အကျိုးအမြတ်များသည် ပုဂ္ဂလိက သဘောအားဖြင့် လူတဦးစီ၊ သို့မဟုတ် လူတစုစီ ထံသို့သာ စုပုံသွားစေရသည် မဟုတ်ပဲ၊ လူအများထံသို့သာ သမမျှတစွာ သွားစေရမည်။

(၂) လူတိုင်းအား အဆင့်အတန်း၊ ငွေအင်အား မခွဲခြားပဲ သာတူညီမျှ အခွင့်အရေး ရရှိစေရမည်။ သမဝါယမ လုပ်ငန်းတွင် လူတဦးစီ၏ အခြေအနေနှင့် သူတဦးစီ၏ တန်ဖိုးကို ငွေနှင့်ဖြတ်သည် မဟုတ်ပဲ အားလုံးသော အရည်အချင်းနှင့်သာ တန်ဖိုး ဖြတ်လေသည်။

(၃) လူအချင်းချင်း ခေါင်းပုံဖြတ်ခြင်း၊ အမြတ်ကြီးထုတ်ခြင်းနှင့် အပြိုင်အဆိုင်လုပ်ခြင်းတို့ကို ရှောင်ကြဉ်ကြရသည်။ သမဝါယမ လုပ်ငန်းတွင် သာမန် ကုန်သွယ်လုပ်ငန်းမျိုး မရှိချေ။ သာမန် ကုန်သွယ်လုပ်ငန်းကဲ့သို့ လူတဦး၊ သို့မဟုတ် လူတစုက ငွေရင်းစိုက်ထုတ်ပြီး ကုန်များကို ဝယ်ယူ သိုလှောင်လျက် မိမိနှင့် အကျိုးတူမဟုတ်သော အခြားလူများအား အကန့်အသတ်မရှိ အမြတ်တင်ရောင်းချခြင်းမျိုးကို ကင်းစွာပြုကျင့်ရသည်။

(၄) သမဝါယမ လုပ်ငန်းသည် ဗလငါးတန် ကြီးပွားမှုကို လုပ်ကိုင်နိုင်သော နည်းတနည်း ဖြစ်ရမည်။ လုပ်ငန်းမှ ပေါ်ပေါက်လာသောငွေပိုများ (အမြတ်ငွေများ) ကို ဗလငါးတန်ဖွံ့ဖြိုးရေးအတွက်ပါ ခွဲဝေအသုံးပြုရမည်။ ထိုသို့ မဟုတ်ပဲ မိမိတို့ အချင်းချင်းသာ ခွဲဝေ သုံးစွဲသောလုပ်ငန်းသည် သမဝါယမ သဘောတရားကင်းမဲ့သော အသင်းအဖွဲ့သာဖြစ်သည်။

(၅) လူတစု၏ အာဏာသုံးမှု၊ ဥပဒေ ထုတ်မှုကြောင့် မလုပ်မနေရသဖြင့် လုပ်ရသော သဘောမျိုးသည် သမဝါယမတွင် မပါဝင်ရချေ။

အထက်ပါ သမဝါယမ သဘောတရားငါးခု ပေါ်လွင်မှုအတွက် လူတို့သည် သီးခြားဝါဒများကို သတ်မှတ်လိုက်နာကာ အသင်းအဖွဲ့ အစည်းအရုံး အမျိုးမျိုးကို ဖွဲ့စည်း လုပ်ကိုင်ကြသည်။

**သမဝါယမ အသင်းများ**

ကမ္ဘာ့ပေါ်ရှိ နိုင်ငံများစွာတို့၌ သမဝါယမ အစည်းအရုံးအမျိုးမျိုးကို ဖွဲ့စည်းထားကြသည်။ သို့ရာတွင် ထိုအစည်းအရုံးများအား မည်သို့ အမျိုးအစားခွဲခြားရမည်ကိုဆုံးဖြတ်ထားခြင်း မရှိ၍ တနိုင်ငံနှင့်တနိုင်ငံ မတူချေ။ အချို့က ထိုအသင်းများ၏ လုပ်ကိုင်သော အလုပ်အကိုင်ကိုခွဲ၍ အချို့က ထိုအသင်းဝင်များ၏ အသက်မွေးဝမ်းကျောင်း အလုပ်ကိုလိုက်၍ ခွဲခြားခြင်း ပြုသည်။ စံနစ်အကျဆုံးသော အမျိုးခွဲနည်းမှာ အယ် စမစ် ဂေါ်ဒန်နှင့် စီ အို ဗရိုင်အင် ဆိုသူ ပုဂ္ဂိုလ်နှစ်ဦး၏ ခွဲနည်းဖြစ်သည်။ ထိုပုဂ္ဂိုလ်နှစ်ဦးက ကမ္ဘာပေါ်၌ ရှိသမျှသော သမဝါယမ အဖွဲ့အစည်းများကို အဓိကအားဖြင့် အမျိုးကြီးနှစ်မျိုးသာ ခွဲခြားထားသည်။ ယင်းသို့ခွဲခြားရာ၌ အသင်းဝင်တို့၏ အသက်မွေးဝမ်းကျောင်းအရ မဟုတ်ပဲ၊ ထိုသူတို့ပါဝင်သော အသင်းက လုပ်သည့် အလုပ်အကိုင်သာ ခွဲခြင်းပြုသည်။ အဓိက ခွဲခြားထားသော သမဝါယမနှစ်မျိုးမှာ (၁) ကုန်လုပ်ရေး သမဝါယမ၊ (၂) ကုန်စားသုံးရေး သမဝါယမ ဟူ၍ ဖြစ်သည်။

(၁) ကုန်လုပ်ရေး သမဝါယမ (က) ဝတ္ထုပစ္စည်းများကို လုပ်ခြင်း၊
(ခ) ဝန်ထမ်းမှု အမျိုးမျိုး ပေးခြင်း။

(က) ဝတ္ထုပစ္စည်းများကို လုပ်ခြင်း၊ ကုန်လုပ်သူများ ကုန်လုပ်သောအသင်း (ပုံပမာ—လယ်ယာ ခြံ ဥယျာဉ် စုပေါင်း စိုက်ပျိုးခြင်း၊ တိရစ္ဆာန် စုပေါင်း မွေးမြူခြင်း စသည့် ကုန်ကြမ်းလုပ်သူများ အသင်း)။ ကုန်များကို တသီးပုဂ္ဂလ လုပ်ပြီးမှ အသင်းတွင် စုရောင်းသော ကုန်လုပ်သူများ၏ သမဝါယမ ကုန်ရောင်းအသင်း (ပုံပမာ—တသီးပုဂ္ဂလ ကြက်ဥဖောက်၍ငင်း၊ အသီးအနှံ စိုက်ပျိုး၍ငင်း၊ တိရစ္ဆာန်မွေးမြူ၍ငင်း အသင်းတွင် စုရောင်းခြင်း၊ စပါးကို ဆန်ကြိတ်၍ငင်း၊ မြေပဲကို ဆီကြိတ်၍ငင်း၊ သစ်သီးကို ယိုထိုး၍ငင်း၊ နွားနို့ကို နို့ဆီထောပတ်လုပ်၍ငင်း၊ ဝါဂွမ်းကို အထည်လုပ်၍ငင်း ရောင်းခြင်း)။ စားသုံးသူများ အသင်း (ပုံပမာ—စားသုံးသူများ စုပေါင်းအသင်းဖွဲ့၍ လက်လီ လက်ကားဆိုင်များ တည်ထောင်ထားခြင်း၊ စားသုံးသူများ စုပေါင်း၍

ကုန်ရိုင်းမှ ကုန်ချောလုပ်သော စက်ရုံတည်ထောင်ခြင်း၊ စားသုံးသူများ စုပေါင်းအသင်းဖွဲ့၍ အသင်းပိုင်မြေပေါ်တွင် ကိုယ်တိုင် စိုက်ပျိုး လုပ်ကိုင်ပြီးလျှင် ထွက်လာသော လယ်ယာမြေထွက်ပစ္စည်းများကို စားသုံးခြင်း)။

(ခ) ဝန်ထမ်းမှု အမျိုးမျိုးနှင့်ဆိုင်သောအသင်း — သမဝါယမ အကျိုးခံစားထိုက်သော ဆင်းရဲသား လူတန်းစားများ၏ ကောင်းစားရေးကို ရှေးရှု၍လုပ်သော သမဝါယမ ဝန်ထမ်း အလုပ်များနှင့် ဆိုင်သော အသင်းများ ဖြစ်သည်။ (ပုံပမာ—ပုံနှိပ်စက် အလုပ်သမားများ စုပေါင်း၍ ဖွဲ့စည်းထားသော သမဝါယမ စာပုံနှိပ်စက်အသင်း၊ မော်တော်ယာဉ် အလုပ်သမားများစုပေါင်း၍ ဖွဲ့စည်းထားသော သမဝါယမ မော်တော်ယာဉ်အသင်း၊ ကုန်တင်ကုန်ချ အလုပ်သမားများ စုပေါင်း၍ ဖွဲ့စည်းထားသော ကုန်တင် ကုန်ချ လုပ်သား သမဝါယမအသင်း)။

(၂) ကုန်စားသုံးရေးသမဝါယမများ၊ (က) ဝတ္ထု ပစ္စည်း စားသုံးခြင်း။
(ခ) ဝန် ထမ်း မှု စားသုံးခြင်း။

(က) ဝတ္ထုပစ္စည်း စားသုံးခြင်း— အိမ်သုံး ပစ္စည်းများကို စားသုံးသော အသင်းများ(ပုံပမာ— သမဝါယမ ကုန်စုံဆိုင်အသင်းများ)။ ကုန်လုပ်သူများ၏ ကုန်ကြမ်း ကုန်ချောဝယ် အသင်းများ (ပုံပမာ—ပေါ်လုပ်သူများ၏ ဆားဝယ်အသင်း၊ ရက်ကန်းသည်များ၏ ခြည်ဝယ် အသင်း စသည်)။ ဝန်ထမ်းသမားများ၏ ပစ္စည်းဝယ်အသင်းများ (ပုံပမာ — မော်တော်ယာဉ်ပိုင်သူများ၏ မော်တော်ယာဉ်ပစ္စည်းဝယ် အသင်းများ)ဖြစ်ကြသည်။

(ခ) ဝန်ထမ်းမှုကို စားသုံးသော အသင်းများ— ချေးငွေဖြင့် ယုံကြည်မှုကို စားသုံးသော အသင်းများ (ပုံပမာ – ငွေချေးအသင်းများ၊ ဘဏ်များ)။ အာမခံဖြင့် ကူညီမှုကို စားသုံးသော အသင်းများ(ပုံပမာ—လူ့အသက် အာမခံအသင်း၊ကျွဲနွားအသက် အာမခံအသင်း)။ လူ့ အသုံးအဆောင် ဝန်ထမ်းမှုကို စားသုံးသောအသင်း (ပုံပမာ—အိမ်ငှားသူများ သမဝါယမ၊ လျှပ်စစ်ဓာတ်အား သုံးသူများ သမဝါယမ၊ဆံပင်ညှပ်ဆိုင်သမဝါယမ)တို့ဖြစ်သည်။

သမဝါယမအသင်းများကို ဖွဲ့ကြရာတွင် လူများသည် ရပ်ကွက်အလိုက်၊ မြို့ရွာအလိုက် သီးခြားစီ ဖွဲ့ကြ၏။ ယင်းသို့ အသင်းများ များပြားလာသောအခါ သီးခြားစီ လုပ်ကိုင်သည်ထက် စုပေါင်း လုပ်ကိုင်ပါက ဝါဒဖြန့်သောကိစ္စ၊ ပညာပေးသောကိစ္စ၊ ကုန်ရောင်းဝယ်မှု ကိစ္စ၊ ငွေရေး ကြေးရေး ကိစ္စ၊ စာရင်းအင်းစစ်ဆေးခြင်း ကိစ္စတို့တွင် ပိုမို ခရီးရောက်နိုင်မည်ကို စိတ်ကူးမိလာပြီးလျှင် မြို့နယ်အဖွဲ့၊ ခရိုင်အဖွဲ့၊ နိုင်ငံလုံးဆိုင်ရာအဖွဲ့ချုပ် အထိ ဖွဲ့စည်း လုပ်ကိုင်ကြသည်။ အချို့နိုင်ငံတို့တွင် အလုပ်တမျိုးလျှင် အဖွဲ့ချုပ်တခုကျနှင့် တနိုင်ငံတွင်အဖွဲ့ချုပ်နှစ်ခုသုံးခုထက်မနည်းရှိကြသေးသည်။ ဗြိတိန်နိုင်ငံတွင် ကုန်ရောင်း၊ ကုန်ဝယ်၊ ကုန်ထုတ်လုပ်ငန်း သက်သက်လုပ်သော 'စီ၊ ဒဗလျူ၊ အက်စ'ခေါ် သမဝါယမ လက်ကားအဖွဲ့ချုပ်ကြီးနှစ်ခုနှင့် ကုန်လုပ်အသင်းများ၏ အဖွဲ့ချုပ် ရှိကြပြီးလျှင် ထိုအဖွဲ့ချုပ်များသည် ဗြိတိသျှ နိုင်ငံလုံးဆိုင်ရာ သမဝါယမအဖွဲ့ချုပ်ကြီးတွင် ဖက်စပ် ပူးပေါင်း လုပ်ကိုင်ကြပြန်သည်။

နိုင်ငံလုံးဆိုင်ရာ သမဝါယမ အဖွဲ့ချုပ်သည် အခြေခံ အသင်းများ၏ သန့်ရှင်းမှုနှင့် အသင်းသားများ၏ သမဝါယမ ဉာဏ် ရင့်သန်မှုအတွက် တာဝန်ယူ၍ အလုပ်လုပ်ရသည်။ လက်ကား အသင်း၏ တာဝန်မှာ အခြေခံ အသင်းများက အလိုရှိသော ကုန်ပစ္စည်းများကို လုပ်နိုင်သမျှ လုပ်၍ ဖြစ်စေ၊ နိုင်ငံခြားမှ သွင်း၍ဖြစ်စေ လက်ကားဈေးနှင့် ဖြန့်ဖြူးရခြင်း ဖြစ်သည်။ ထို့ပြင် လက်ကားအသင်းသည် အခြေခံ အသင်းများ၏ ငွေပိုများကို သိမ်းဆည်းပေးခြင်း၊ လိုငွေများကို ထုတ်ချေးခြင်း၊ အာမခံ လုပ်ငန်းများကို လုပ်ပေးခြင်း စသော ကိစ္စများကို နိုင်နင်း ပြေပြစ်စွာ ဆောင်ရွက်ပေးလေသည်။

ဆိုဗီယက် ရုရှနိုင်ငံတွင်'ဆင်ထရိုဆိုယု'ခေါ် နိုင်ငံလုံးဆိုင်ရာ အဖွဲ့ချုပ်သည် နိုင်ငံအတွင်းရှိ သမဝါယမ အသင်းများ၏ အကြံပေးကိစ္စ၊ ဝါဒဖြန့်ရေးကိစ္စ၊ စာရင်းအင်း စစ်ဆေးရေး ကိစ္စနှင့် ကုန်ရောင်းဝယ်ရေး၊ ကုန်ထုတ်ရေးကိစ္စ စသော ကိစ္စအားလုံးကို တာဝန်ယူ ဆောင်ရွက်ရသည်။ ဂျာမနီနိုင်ငံတွင် ရိုက်ဖဲဆင်ဘဏ်များ၏ အဖွဲ့ချုပ်၊ ရှူးလဇာဘဏ်များ၏ အဖွဲ့ချုပ်၊ ဟပ်ဇဘဏ်များ၏ အဖွဲ့ချုပ်၊ကုန်ဆိုင် အသင်းများ၏ ဆင်ထရယ်ဗာဗင်ခေါ် အဖွဲ့ချုပ်၊ ရိတ်စဗာဗင်ခေါ် အဖွဲ့ချုပ်များသည် အသီးအသီး မိမိတို့ဝါဒအလိုက် လုပ်ဆောင်ခဲ့ကြသော်လည်း ထိုအဖွဲ့ချုပ်များ ပေါင်းစပ်၍ တမျိုးသားလုံးဆိုင်ရာ အဖွဲ့ချုပ်ကြီးမျိုးကား မရှိချေ။

ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် ပဋ္ဌမ ပြုလုပ်ထားပြီးဖြစ်သော အစီအစဉ်အရမူ ခရိုင်တိုင်းတွင် ရှိသမျှသော သမဝါယမအသင်း အမျိုးမျိုးကို စုပေါင်းကြလျက် ခရိုင်ယူနီယံအဖွဲ့များကို ဖွဲ့စည်းစေပြီးလျှင် ခရိုင် ယူနီယံများမှ

တဆင့် ပြည်ထောင်စု မြန်မာနိုင်ငံ သမဝါယမ ကောင်စီကို ဖွဲ့စည်းစေသည်။ ထိုအဖွဲ့ချုပ်နှင့် ခရိုင်အဖွဲ့များသည် 'အသင်းသားများ၏ ဉာဏဗလ တိုးပွားရေးနှင့် ဘောဂဗလ တိုးတက်ရေးကို ဆောင်ရွက်သွားရသည်။ ထိုအခါ နိုင်ငံလုံးဆိုင်ရာ အဖွဲ့ချုပ်သည် နိုင်ငံတွင်း ရှိသမျှသော သမဝါယမ လုပ်ငန်းအရပ်ရပ်ကို နိုင်ငံလူထု၏ ကောင်းစားရေး ရှေးရှုလျက် ဆောင်ရွက်သွားရန် ဖြစ်သည်။ သို့ရာတွင် ထိုအစီအစဉ်ကို ပြင်ပြီးလျှင် စီးပွားရေး အသေးစိတ် ကိစ္စကို လက်ကားအဖွဲ့များက ကိုင်လျက် ပညာရေး စသည်တို့ကို ကောင်စီများက ကိုင်ခဲ့ကြသည်။

ယင်းသို့ နိုင်ငံအတွင်း အသင်းများ စုပေါင်း၍ အဖွဲ့ဖွဲ့စည်းရုံမက ကမ္ဘာ့နိုင်ငံ အသီးအသီးရှိ သမဝါယမ အချင်းချင်းလည်း ကမ္ဘာ့ငြိမ်းချမ်းရေးကို ရှေးရှု၍ ပူးပေါင်းဆောင်ရွက်ကြသေးသည်။ ၁၈၉၅ ခုနှစ်က စတင် ဖွဲ့စည်းလိုက်သော အပြည်ပြည်ဆိုင်ရာ သမဝါယမ အဖွဲ့ချုပ်ကြီး (အိုင်၊ စီ၊ အေ)သည် နိုင်ငံအချင်းချင်း သမဝါယမ လုပ်ငန်းနှင့် စပ်လျဉ်းသော သတင်းပေးခြင်း၊ ထင်မြင်ယူဆချက်များကို နှီးနှောခြင်းစသည့် အလုပ်များကို လုပ်ကိုင်ခဲ့လေသည်။ ဒုတိယကမ္ဘာစစ် မဖြစ်မီကလေး၌ပင် နိုင်ငံပေါင်းများစွာ ပူးပေါင်း၍ အပြည်ပြည်ဆိုင်ရာ သမဝါယမ လက်ကား ကိုယ်စားလှယ် အဖွဲ့ကို ဖွဲ့စည်းခဲ့ကြသော်လည်း အရှိန်မရမီ စစ်နှင့် ကြုံလိုက်သဖြင့် မအောင်မြင်ချေ။

**သမဝါယမ ဝါဒ**

သမဝါယမအသင်းတွင် လူတန်းစား ခွဲခြားမှု မထားချေ။ အသင်းသားတိုင်းသည် အသင်း၏ပြင်ပတွင် မည်သည့် အဆင့်အတန်း၌ ရှိစေကာမူ မိမိတို့၌ တူညီသော လိုအပ်မှုကို ဖြည့်ဘင်းနိုင်ရန် ရှေးရှု၍ လုပ်ဆောင်ကြခြင်း ဖြစ်သဖြင့် အဆင့်အတန်း ခွဲခြားမှု ပပျောက် သွားလေသည်။ တူညီသော လိုအပ်မှုကို ရရှိရေးအတွက် တဦးအတွက် အများ၊ အများအတွက် တဦးက ညီညွတ်စွာ ဆောင်ရွက်ကြရသည်။ အသင်းဝင်ဦးရေ မည်မျှ ရှိရမည်ဟု ကန့်သတ်ထားခြင်း မရှိချေ။

သမဝါယမလုပ်ငန်းနှင့်သက်ဆိုင်သော သူများ လိုက်နာကျင့်သုံးရသည့်ဝါဒစည်းမျဉ်းများ ရှိသည်။ သမဝါယမဝါဒသည် အခြေခံဝါဒနှင့် လုပ်ငန်းစဉ်ဝါဒ ဟူ၍ နှစ်မျိုးရှိသည်။

သမဝါယမ အခြေခံ ဝါဒ ဆယ်ရပ်ရှိသည်။ ယင်းတို့မှာ–

(၁) လူတို့၏ ဗလငါးတန်ဖွံ့ဖြိုးမှုကို ရှေးရှုရမည်။
(၂) လုပ်ငန်းထူထောင်ရာ၌ ငွေရင်းထက် လူမှန်သမျှ တူညီကြသည် ဟူသော လူ့အဖြစ် လူ့ဘဝကို အခြေခံပြုရမည်။
(၃) သမဝါယမအစည်းအရုံးသည် ဒီမိုကရေစီ အစည်းအရုံး ဖြစ်ရမည်။
(၄) ငွေရင်းအင်အား နည်းပါးသူများ၏အစည်းအရုံး ဖြစ်ရမည်။
(၅) လူအချင်းချင်း ခေါင်းပုံဖြတ်ပြီးအမြတ်ကြီးထုတ်သော လုပ်ငန်း မဟုတ်စေရ။
(၆) ကုန်လုပ်သူနှင့် စားသုံးသူကြား မလိုအပ်သော အပိုလူ မပါနိုင်သမျှ မပါအောင် ဖယ်ရမည်။
(၇) ချွေတာ စုဆောင်းရမည်။
(၈) ရိုးသားမှုကို အရင်းအနှီး ပြုရမည်။
(၉) လှုံလကို မလျှော့ရ။
(၁၀) ကိုယ့်ဒူး ကိုယ်ချွန်ဝါဒ ရှိရမည် ဟူ၍ ဖြစ်သည်။

ယင်း အခြေခံဝါဒ များအပြင် သမဝါယမအသင်းအဖွဲ့များ အလုပ်လုပ်ရာတွင် အမှုဆောင်အဖွဲ့များက လိုက်နာဆောင်ရွက်ရသော လုပ်ငန်းစဉ် ဝါဒများ ရှိသေးသည်။ ယင်းတို့မှာ –

**အထွေထွေလုပ်ငန်းစဉ်ဝါဒ**

(၁) အသင်းပိုင် အစု ရင်းနှီးငွေကို ကန့်သတ်ခြင်း မပြုရ။
(၂) အသင်းအဖွဲ့ဝင်စာရင်းကို မပိတ်ရ။
(၃) အသင်းဝင်တဦး၏ အစုငွေကို ကန့်သတ်ရမည်။
(၄) အသင်းဝင်များ၏ အစုငွေရင်းပေါ်တွင် ပေးသော အမြတ်ကို ကန့်သတ်ပေးရမည်။
(၅) အသင်းဝင်များသည် အသင်း၏ စီမံအုပ်ချုပ်ရာတွင် မဲဆန္ဒ ညီတူညီမျှ ပေးနိုင်ရမည်။
(၆) အမြတ်မှ သီးသန့်ရံပုံငွေထုတ်ထားရမည်။

**ကုန်လုပ်ရေးဆိုင်ရာ လုပ်ငန်းစဉ်ဝါဒ**

(၁) အလုပ်သမားအသီးအသီးအား အစုငွေ ထည့်ဝင်စေရမည်။
(၂) စီမံအုပ်ချုပ်မှု၌ ပါဝင်ဆောင်ရွက်ခွင့် ပြုရမည်။
(၃) လုပ်အား အလျောက်နှင့် အစုငွေအလျောက် အမြတ်ငွေ ခွဲဝေပေးရမည်။

**စားသုံးရေးဆိုင်ရာ လုပ်ငန်းစဉ်ဝါဒ**

(၁) အသင်းဝင် တဦးလျှင် မဲဆန္ဒတခုသာ ပေးနိုင်ခွင့် ရှိခြင်း။
(၂) ယောကျ်ားနှင့်မိန်းမ တူညီသော အခွင့်အရေး ရရှိခြင်း။
(၃) အစုရှင်အား နှုန်းသေ ကန့်သတ်၍ အတိုးပေးခြင်း။
(၄) အစုငွေရင်းပေါ်၌ ပေးသောအတိုးနှင့် စရိတ်များ နုတ်ပြီးနောက် ကျန်သော အမြတ်ငွေကို အသင်းဝင်များအား သူတို့၏ ကုန်ဝယ်အင်အား အလျောက် ခွဲဝေပေးခြင်း။
(၅) ကုန်များရပ်ရွာပေါက်ဈေးအတိုင်းရောင်းခြင်း။




တဦးအတွက်အများ၊ အများအတွက်တဦးက ညီညွတ်စွာ ဆောင်ရွက်ကြရသည့် သမဝါယမလုပ်ငန်း

(၆) ကုန်များ လက်ငင်းငွေချေစံနစ်နှင့်ရောင်းခြင်း။

(၇) အစည်းအဝေးများကို မှန်မှန်လုပ်၍ အသင်းကြီး၏ ကြီးပွားရေး အတွက် မှန်မှန်ဆွေးနွေးတိုင်ပင်ခြင်း။

(၈) စာရင်းအင်းများကို မှန်မှန်ရေးသွင်း၍ အသင်းဝင်များအား မှန်မှန်တင်ပြခြင်း။

**သမဝါယမ ပန်းတိုင်**

သမဝါယမ လုပ်ငန်း၏ ပန်းတိုင်သည် လောကီငြိမ်းချမ်းမှုဖြစ်သည်။ လောကီ ငြိမ်းချမ်းမှု ဆိုသည်မှာ လူတို့အဖို့ မရှိမဖြစ်သည့် အစားအသောက် ပေါများမှု၊ အဝတ် အထည် ပေါများမှုနှင့် နေရာထိုင်ခင်း ပေါများမှု ဟူသော ပေါများမှု သုံးခုနှင့် ပြည့်စုံလုံလောက်ခြင်း ဖြစ်သည်။ ယင်းပေါများမှုသုံးခုနှင့် မပြည့်စုံသမျှကာလပတ်လုံး လူတို့သည် ငြိမ်းချမ်းမှုကို မရနိုင်ကြချေ။ သမ မျှတခြင်း မရှိသော စီးပွားရေးစံနစ် ထွန်းကားနေသမျှ ကာလပတ်လုံး လူအများသည် ပေါများမှု သုံးခုနှင့် ကြုံတွေ့ခံစားရမည်မဟုတ်ချေ။ ပေါများမှု သုံးခုပြည့်စုံရန် သမ မျှတသော သမဝါယမ လုပ်ငန်းအောင်မြင်ဖို့ လိုအပ်လေသည်။

သမဝါယမပန်းတိုင်ကို ဆွတ်ခူးနိုင်ရန် သမဝါယမလုပ်ငန်းတွင် အချုပ်အားဖြင့် အောက်ပါ လုပ်ငန်းစဉ် ငါးရပ်ရှိသည်။

(၁) ကုန်စားသုံးသူများနှင့် လက်မှုပညာ ကုန်လုပ်သမားကလေးများအား အရင်းရှင် အင်အားစုများ၏ သွေးစုတ်မှု၊ လက်ဝါးကြီး အုပ်မှုများမှ ကာကွယ်ပေးခြင်း။

(၂) အသင်းသားများအား အနည်းငယ်စီ ချွေတာစုဆောင်းနိုင်စေကြပြီးလျှင် ထိုသို့ စုဆောင်းမိသော ဘုံပိုင်ရင်းနှီးငွေဖြင့် အသင်းသားများ၏ ရင်းနှီးငွေကို ဖန်တီးပေးခြင်း။

(၃) တိုင်းသူပြည်သားတို့၌ တွေ့ကြုံတတ်သော စီးပွားရေးဆိုင်ရာ အခက်အခဲပြဿနာကို ဖြေရှင်းရာ နည်းကောင်းတခု ဖြစ်စေခြင်း။

(၄) အဆင့်အတန်း နိမ့်ကျသော နိုင်ငံများတွင် နေထိုင်မှု အဆင့်အတန်းမြင့်အောင် စုရုံး ဆောင်ရွက်ခြင်း။
(၅) စီးပွားရေးဒီမိုကရေစီခေါ် လူအများလုပ်ရသော စီးပွားရေး လုပ်ငန်း အကြောင်းကို လူအများ လက်တွေ့ လေ့လာ ဆည်းပူးနိုင်စေရန် ဆောင်ရွက်ရခြင်း။

အထက်ပါလုပ်ငန်းစဉ်ငါးရပ်ကို မျက်ခြည်မပြတ်ဆောင်ရွက်နိုင်မှသာ သမဝါယမပန်းတိုင်သို့ အောင်မြင်စွာ ရောက်နိုင်ကြပေသည်။

သမဝါယမလုပ်ငန်းများသည် လူတဦးတယောက်တည်း အကျိုးအတွက် ပြုလုပ်သည်မဟုတ်ပဲ၊ လူအများ သာတူညီမျှအကျိုးခံစားရေးအတွက် ဗလငါးတန်ဖွံ့ဖြိုးမှုကို ရှေးရှု၍ လုပ်ကိုင်သော လုပ်ငန်းဖြစ်သဖြင့် အစိုးရတို့က အထူးအားပေးလေသည်။ အမေရိကန်ပြည်ထောင်စု၌ ကက်ပါ–ဗောလ်စတက် အက်ဥပဒေ၊ ၁၉၆၂ ခုနှစ် ဖီဒရယ်အစိုးရ အခွန်တော် အက်ဥပဒေ စသည်တို့ကို ပြဋ္ဌာန်း၍လည်း လယ်ယာလုပ်ငန်းဆိုင်ရာ သမဝါယမများကို အခွန်တော် အချို့မှ လွတ်ငြိမ်းခွင့် ပေးထားလေသည်။

**သမားတော်။** ။သမားတော်ဟူရာ၌ သမား ဟူသော အမည်သည် အများနှင့် သက်ဆိုင်သော အမည်ဖြစ်၏။ သက်ဆိုင်ပုံအား အလုပ်သမား၊ လက်သမား၊ ဓာတ်သမား၊ လယ်သမား စသည်တို့ ဖြစ်၏။ သို့ရာတွင် အခြားအမည်များမှာ သမား၏ရှေ့က လုပ်ငန်းကိစ္စနှင့် ဆက်စပ်သော အလုပ်-လက်-ဓာတ်-လယ် ဟူသော အမည်များနှင့်တွဲဖက်၍ သုံးစွဲမှ အဓိပ္ပာယ်ပြည့်စုံသည်။ဆေးသမား အမည်မှာကား သမား၏ရှေ့က လုပ်ငန်းကိစ္စနှင့် ဆက်စပ်သော ဆေး ဟူသော အမည်နှင့် တွဲဖက်၍ သုံးစွဲသည်ဖြစ်စေ၊ မသုံးစွဲသည်ဖြစ်စေ အဓိပ္ပာယ်ပြည့်စုံသည်။ ဆေးသမား ဟူသော အဓိပ္ပါယ်ကို လူတိုင်း သိနိုင်၏ဟု ဆိုလိုသည်။ တော် ဟူသော စကားမှာလည်း အရှင်သခင်ဖြစ်သောပုဂ္ဂိုလ်၊ ရိုသေလေးမြတ်အပ်သော ပုဂ္ဂိုလ်အမည်နှင့် ရိုသေလေးမြတ်အပ်သော အရာဝတ္ထုတို့အမည်၏ နောက်ကတွဲဖက်၍ သုံးစွဲသော စကားဖြစ်၏။ ပုံစံကား မူးတော်-မတ်တော်-အကြီးတော်-သားတော်- သမီးတော် - ဆရာတော် - စေတီတော် - ကျောင်းတော်- အိမ်တော်- နန်းတော် စသည်တို့ ဖြစ်၏။ ထိုအတွက် ဘုရင်မင်းမြတ်တို့၏သမားကို ရိုသေလေးမြတ်အပ်သောပုဂ္ဂိုလ်ဖြစ်သောကြောင့် သမား ဟူသော အမည်၏နောက်က တော် ဟူသောစကားကိုတွဲဖက်၍ သမားတော် ဟုခေါ်ဝေါ် သုံးစွဲကြသည်။

သမားတော်ဟု ခေါ်ဝေါ် သုံးစွဲရာ၌လည်း သတ္တဝါတို့ ခန္ဓာကိုယ်ကြီး၌ စွဲကပ်နေသော ရိုးရိုးအနာရောဂါတို့ကို ကုသသော ဆေးသမားကိုသာ သမားတော်ဟု ခေါ်ဝေါ် သုံးစွဲကြသည် မဟုတ်၊ 'ရဟန်းတို့၊ ဆေးသမား ဟူသော အမည်ကား ငါဘုရား၏ အမည်တော်ဖြစ်၏'ဟုဟောတော်မူသောအရာ၌ ခန္ဓာ-အာယတန-ဓာတ်- ပဋိစ္စသမုပ္ပါဒ်တို့ အကြောင်းနှင့်အကျိုး ဆက်စပ်လျက် ဖြစ်ပျက်နေသော သတ္တဝါတို့ခန္ဓာကိုယ်ကြီး၌ စွဲကပ်နေသော သံသရာဝဋ်ဆင်းရဲ အနာရောဂါကြီးကို မသိမမြင်ခြင်းအဝိဇ္ဇာနှင့် လိုချင်တပ်မက်ခြင်းတဏှာ အမြစ်အရင်းနှစ်ပါးနှင့်တကွ ပျောက်ကင်းချမ်းသာအောင် တရားတော်ဆေးဖြင့် ကုသတော်မူသော မြတ်စွာဘုရားကိုလည်း သမားတော်ဟု ခေါ်ဝေါ် သုံးစွဲကြသည်။ ဤ၌ သမားတော်ဟူသော အမည်ကား ဆေးသမားကို ခေါ်ဝေါ်သော အမည်ဖြစ်၏။

ဆေးသမားတို့ အင်္ဂါကား ''သက်ကြည့်ဗေဒင်၊ တတ်မြောက်မြင်လျက်၊ ဆတိခြင်ထောက်ရှု၊ ဆေးကုလိမ်မာ၊ ဆေးစာမြားမြောင်၊ ကျမ်းစောင်စောင်ကို၊ တတ်ခေါင်တွင်ကျယ်၊ချစ်ဖွယ်ရှိခြင်း၊သီတင်းဖြူစင်၊ ကျင့်စုံလင်အံ့၊ ဤအင်္ဂါ၊ မယွင်းပါးသည်၊ သမားပဏ္ဍိ၊ ကဝိနက်စံ၊ ဂုဏ်လောက်ငံကို''ဟု ရာဇနီတိကျမ်း၌ လာသည်ကို ပြဆိုထားသော နရသုခိလင်္ကာအရ (၁) နက္ခတ်ဗေဒင်၌ ကျွမ်းကျင်လိမ်မာခြင်း၊ (၂)ဆေးဝါးကုသမှု၌ ကျွမ်းကျင်လိမ်မာခြင်း၊ (၃)ဆေးကျမ်းအမျိုးမျိုးကို ကြည့်ရှုမှတ်သား ဗဟုသုတများခြင်း၊ (၄) ကြည်ညိုဖွယ် ရုပ်ဆင်းသဏ္ဍာန်နှင့် ပြည့်စုံခြင်း၊ (၅)အကျင့်သီလနှင့် ပြည့်စုံခြင်း ဟူ၍ ငါးပါးဖြစ်၏။ ဤအင်္ဂါငါးပါးနှင့်ပြည့်စုံမှ လူရှင်အများ အားထားမှီခိုရာ ဆေးသမားကောင်း ဖြစ်နိုင်သည်။

ဆေးသမားတို့သည် ပိဋကတ်ဆရာ၊ ဓာတ်ဆရာ၊ အဘိဓမ္မာဆရာ၊ နက္ခတ်ဗေဒင်ဆရာ၊ အနာပေါက်ဆရာ၊ မှော်ဆရာ၊ ပယောဂဆရာ စသည်ဖြင့် ကျွမ်းကျင်သော ပညာအစိတ်အပိုင်းကို အစွဲပြု၍၊ သို့မဟုတ် ကုသသော အနာရောဂါကိုအစွဲပြု၍၊ သို့မဟုတ် အရပ်ဒေသ ဂိုဏ်းဂဏစသည်ကို အစွဲပြု၍ မည်မျှပင် အမည်သညာ များပြားနေသော်လည်း ပညာရပ်အနေဖြင့် အကျဉ်းချုပ်လျှင် (၁) သမား (၂) ဟူးရား ဟူ၍ နှစ်မျိုးရှိ၏။သမားကား ဖော်စပ်သော ဆေးဝါးဖြင့်၊ သို့မဟုတ် အာဟာရ ဓာတ်စာဖြင့် ကုသသော ဆရာ ဖြစ်သည်။ ဟူးရားကား နက္ခတ်ဗေဒင်နည်းဖြင့်တွက်၍ရသော အာဟာရဓာတ်စာဖြင့်၊ သို့မဟုတ် ဓာတ်ရိက်ခြင်း ယတြာပြုခြင်း၊ သို့မဟုတ် မှော်ပညာဖြင့်၊သို့မဟုတ် အင်းအိုင်၊ ခါးလှည့်၊ လက်ဖွဲ့၊ ဂါထာ၊ မန္တန်၊ မန္တရား၊ ပရိတ်တော်ဖြင့် ကုသသော ဆရာဖြစ်သည်။

တနည်း (၁) ပိဋကတ်ဆရာ၊ (၂) ဓာတ်ဆရာ၊ (၃) နက္ခတ်ဗေဒင်ဆရာ၊ (၄) ဟူးရားဆရာ ဟူ၍ လေးမျိုးရှိ၏။

ပိဋ္ဋကဆရာကား ဖော်စပ်သော ဆေးဝါးဖြင့် ကုသသော ဆရာဖြစ်သည်။ ဓာတ်ဆရာကား အာဟာရ ဓာတ်စာဖြင့် ကုသသော ဆရာဖြစ်လည်း။ နက္ခတ် ဗေဒင် ဆရာကား နက္ခတ်ဗေဒင်နည်းဖြင့် တွက်၍ရသော အာဟာရဓာတ်စာဖြင့်၊ သို့မဟုတ် ဓာတ်ရိုက်ခြင်း ယတြာပြုခြင်းဖြင့် ကုသသော ဆရာဖြစ်သည်။ ဟူးရားဆရာကား မှော်ပညာဖြင့်၊ သို့မဟုတ် အင်း၊ အိုင်၊ ခါးလှည့်၊ လက်ဖွဲ့၊ ဂါထာ၊ မန္တန်၊ မန္တရား၊ ပရိတ်တော်ဖြင့် ကုသသောဆရာဖြစ်သည်။ထိုသို့ ခွဲခြားထားသော်လည်း ကုသရာ၌ ခွဲခြားနေရသည်မဟုတ်။ 'အနာရောက်ရာ ဆေးချက်' ဆိုသည့်အတိုင်း အနာရောဂါကို ကြည့်၍ မိမိတို့ဉာဏ်စွမ်းရှိသမျှ နည်းအမျိုးမျိုးဖြင့် ကုသကြရသည်။ မှော်ဆရာနှင့် ပယောဂဆရာကား မထူးခြား၊ ပညာကို စွဲ၍ မှော်ဆရာ၊ ကုသသောအနာကို စွဲ၍ ပယောဂဆရာဟု ခေါ်ဝေါ်သုံးစွဲကြသည်။

မှော်ပညာကား ထွက်ရပ်ပေါက်ဝိဇ္ဇာများကို အစွဲပြု၍ ၎င်း၊ နတ်များကို အစွဲပြု၍၎င်း ဂိုဏ်းဂဏ အမျိုးအပြား ရှိသည်။ မှော်ပညာဖြင့် မှော် သွင်းထားသူကို မှော်ဆရာ ခေါ်သည်။မှော်သွင်းရာ၌ အာဏာပိုင်ဆရာက မှော်သွင်းမည့်တပည့်အား ကျင့်ဝတ်တပါးတည်သည်၊ နှစ်ပါးသုံးပါး တည်သည်၊ ကတိပြု သစ္စာခံစေ၍ နတ်ချစ်သော ဆေး၊ သို့မဟုတ် အင်း၊ စမ စသည်တို့ကို ရေး၍ တိုက်သည်။ နောက် တပည့်အား မှော်ပညာနှင့် သက်ဆိုင်သော နတ်များကို ပေးအပ်ပြီးသောအခါ ကိစ္စပြီး၍ မှော်ဆရာ ဖြစ်သွားသည်။ ဆေးကုသောအခါ အာဏာပိုင်ဆရာက ပေးထားသော ဆေးဖြင့်၊ သို့မဟုတ် ပေးအပ် ထားသော နတ်များအကူအညီဖြင့် ကုသသည်။ သို့ရာတွင် မှော်ပညာမှာ ဂိုဏ်းဂဏ အမျိုးအပြားရှိလျက် ကုသနည်းလည်း အမျိုးအပြားရှိသည်။ မှော်ဆရာကား ပုဏ္ဏားခေါ် နတ်ဝင်ဖြစ်သည်။ ယခု ပြဆိုအပ်သော ဆရာများသည်ပင် ဘုရင်မင်းမြတ်က၊ သို့မဟုတ် အစိုးရက ကြည်သို လေးစားသဖြင့် ဂုဏ်ထူးဘွဲ့ထူး မြို့စား ရွာစားအဖြစ် ချီးမြှောက်သောအခါ သမားတော်ဖြစ်လာသည်။

မြတ်စွာဘုရား လက်ထက်တော်အခါက ဆရာဇီဝကသည် ရာဇဂြိုဟ်ပြည်ကြီးရှင် ဗိမ္ဗိသာရမင်းကြီး၏ သမားတော်ဖြစ်၏။ ဆေးကုသရာ၌ သူမတူအောင် ကျွမ်းကျင်လိမ်မာ၏။ ကံကြောင့်ဖြစ်သောအနာကို ချန်လှပ်၍ ကြွင်းသော အနာဟူသမျှကို ဆေးတကြိမ်ပေးကာမျှဖြင့် ပျောက်ကင်း၏။ တနေ့သောအခါ ဗိမ္ဗိသာရမင်းကြီး၏ မြင်းသရိုက် အနာကိုကုသရာ ပျောက်ကင်းသဖြင့် မင်းကြီးက ဆရာဇီဝကအား နှစ်သက်သောနေရာ၊ ဘိုးတော်တို့ အမွေဖြစ်သော သရက်ဥယျာဉ်၊ တနှစ်လျှင် အခွန် တသိန်းရသော မြို့ရွာနှင့် အသုံးအဆောင်တို့ကို ပေး၍ ချီးမြှောက်တော်မူ၏။ ဆရာဇီဝကသည် ဘုရားအမှူးရှိသော ရဟန်းသံဃာတော်တို့၏ အလုပ် အကျွေး သမားတော်လည်း ဖြစ်သည်။

ငါးရာ ငါးဆယ် နိပါတ်တော် သိဝိဇာတ်၌ ဆေးဆရာ သိဝိကသည် သိဝိမင်းကြီး၏သမားတော်ဖြစ်၏။ ဆေးကုသရာ၌ ကျွမ်းကျင်လိမ်မာ၏။ တနေ့သောအခါ သိဝိမင်းကြီးသည် မျက်မမြင် အလှူခံပုဏ္ဏားအား မျက်စိတော်နှစ်လုံးကိုလှူလိုသဖြင့် ဆေးဆရာသိဝိကကိုခေါ်၍ မျက်စိတော်တို့ကို ထုတ်စေ၏။ ဆရာသိဝိကသည် ထားဖြင့်ခွဲစိတ်၍မထုတ်ပဲ ဆေးရည်ဆေးမှုန့်တို့ဖြင့် ကြာညိုလက်ကိုသုတ်လိမ်းပြီးလျှင် မျက်စိ အတွင်းသို့ သွင်း၍ မျက်စိပတ်ပတ်လည်လာသောအခါ မျက်စဉ်းခပ်ပြန်၍ အပြင်သို့ထွက်လာသောအခါမှ လက်ဖြင့်ယူကာ မျက်ကြောတို့ကို ဖြတ်ပြီးလျှင် မင်းကြီးလက်တော်သို့ထည့်၍ လှူစေသည်။ ဤသို့လျှင် သိဝိမင်းကြီးနှင့်ဗိမ္ဗိသာရမင်းကြီးတို့၌ သမားတော်များရှိသကဲ့သို့ ရှေးရှေးမင်းတို့၌လည်း သမားတော်များ ရှိ၏ဟု ယူဆထိုက်သည်။

မြန်မာနိုင်ငံ၌လည်း တကောင်းခေတ်၊ တကောင်းပြည် ဇမ္ဗူဒီပဓဇရာဇာမင်း လက်ထက် ဘွဲ့ဘံဆိပ် တထောင်ခြောက်ဆယ်ပေးရာဝယ် ဟူးရားနှင့် ဆေးသမားများပါဝင်သဖြင့် သမားတော်ရှိကြောင်း သိရသည်။ပုဂံခေတ် ပုဂံပြည် အနော်ရထာ မင်းစော လက်ထက်မှ စ၍ နရသီဟပတေ့ (တရုပ်ပြေး)မင်းလက်ထက်ဘိုင်အောင် ဟူးရားဖြူ၊ ဟူးရားညိုတို့ မင်းအဆက်ဆက်၌ ရှိလာသည်ကို ထောက်သဖြင့် သမားတော်များရှိကြောင်း သိရသည်။ (ဤ၌ ဟူးရားဖြူကား ပုဏ္ဏားသမားတော်ဖြစ်၍ ဟူးရားညိုကား မြန်မာ သမားတော် ဖြစ်သည်။) စစ်ကိုင်းပင်းယခေတ် အင်းဝခေတ် ကုန်းဘောင်ခေတ်တို့၌လည်း သမားတော်များ ရှိသည်ဟု ယူဆထိုက်သည်။အထောက်အထားကား အရည်းကြီးများနှင့် ပွဲကျောင်း ဘုန်းကြီးများသည် နက္ခတ်ဗေဒင်ပညာနှင့် ဆေးပညာ စသည်တို့ကို သင်ကြားပေးကြခြင်း ဖြစ်သည်။ ထိုကြောင့် ထိုအခါက ဗေဒင်ပညာနှင့် ဆေးပညာကျောင်းများရှိကြောင်း ထင်ရှားသည်။

ဆေးပညာ သင်ကြားရာ၌လည်း အနည်းဆုံး လေးငါးနှစ် သင်ကြားမှ တတ်မြောက်၍ ဆရာကောင်း သမားကောင်း ဖြစ်နိုင်၏။ သင်ကြားသောပညာကား ခန္ဓာကိုယ်၏ အစိတ်အပိုင်း၊ ပိဋ္ဋကဆေး၊ ဓာတ်စာ၊ နက္ခတ်ဗေဒင်၊ ရာသီ၊ ဥတုစသည်တို့ကို ပြဆိုထားသော ဆေးကျမ်း၊ ဓာတ်ကျမ်း၊ နက္ခတ်ဗေဒင်ကျမ်းများ ဖြစ်သည်။ အချို့သင်ကြားသောပညာကား မှော်၊ ပယောဂ၊ အင်းအိုင်၊ ခါးလှည့်၊ လက်ဖွဲ့၊ ဂါထာ၊ မန္တန်၊ မန္တရား စသည်တို့ဖြစ်၏။ ကျမ်းစာကို သင်ကြားရုံနှင့်မပြီးသေး၊ ကုထုံးအမျိုးမျိုးတို့ကို ကျမ်း

ကျင်တတ်မြောက်သည့် ဆေးဆရာကြီးတို့နောက်က ဆေးအိတ်ကိုလွယ်၍လိုက်ကာ လူနာစမ်းသပ်နည်း၊ ကုသနည်းတို့ကိုလည်း လက်တွေ့သင်ကြားရပြန်၏။ ထိုသို့ သင်ကြားမှ ဆရာကောင်းသမားကောင်း ဖြစ်နိုင်သည်။

မင်းတုန်းမင်းနှင့် သီပေါမင်းလက်ထက်သို့ရောက်သောအခါ ဆေးပညာမှာ အထွတ်အထိပ်သို့ ရောက်လာသဖြင့် သမားတော်များသည် ပိုမိုထင်ရှားလာ၏။ ဘုရင်မင်းမြတ် ခန့်ထားသော သမားတော်ဖြစ်ရန် မလွယ်ကူချေ။ အလွန်တတ်မြောက် ကျွမ်းကျင်၍ ကျော်စောသော ဆရာများကိုသာ ရွေးချယ်ကာ သမားတော်အဖြစ် ခန့်ထားတော်မူသည်။ ခန့်ထားရာ၌–

(၁) သမားတော်ကြီးများ မျိုးရိုးဖြစ်ရမည်။
(၂) လူနာ့ထံတွင် စာတွေ့ ကိုယ်တွေ့ တတ်မြောက်ကြောင်း ထင်ရှား ပြနိုင်စေရမည်။
(၃) သုံးဦးမှ ကိုးဦးအထိ ပါဝင်သော ဘုရင့်သမားတော်အဖွဲ့မှ ပြုလုပ်သော စာမေးပွဲ အောင်မြင်နိုင်စေရမည်

ဟူ၍ အင်္ဂါသုံးပါးနှင့် ပြည့်စုံရမည်။ ယင်းအင်္ဂါ သုံးပါးနှင့် ပြည့်စုံသော်လည်း (၁)အတွင်းဝန်၊ (၂)ရွှေတိုက်ဝန်၊ (၃) သံတော်ဆင့်မင်း၊ (၄)စာရေးတော်ကြီး၊ (၅) ဝန်ထောက်မင်း၊ ဤအရာရှိကြီး ငါးဦးတို့က ထောက်ခံသူဖြစ်ရမည်။ ဤဆိုအပ်ပြီးသော အရည်အချင်းနှင့် ပြည့်စုံသောသူတို့ကိုသာ ဘုရင်မင်းမြတ်က သမားတော်အဖြစ် ခန့်ထားတော်မူသည်။

ဘုရင်မင်းမြတ် ခန့်ထားခြင်း ခံရသူများကသာ သမားအမည်၏ နောက်က တော်တပ်၍'သမားတော်'ဟု အခေါ်ခံရသည်။ ထိုပြင် 'နေမျိုးဘိသက္ကရာဇာ'၊ 'မင်းထင်ဘိသက္ကရာဇာ'၊ 'မဟာဘိသက္ကရာဇာ' စသောဘွဲ့များကို ရကြ၏။ အဆင့်အတန်းအလိုက် မြို့ရွာများကိုလည်း အပိုင်စားကြရ၏။ ယင်းမြို့ရွာမှ ထွက်သော အခွန် ဘဏ္ဍာများကို လခအဖြစ် ရကြ၏။ မင်းတုန်းမင်းနှင့် သီပေါမင်းတို့ လက်ထက်ရောက်မှသာ လခကြေးငွေပေးခြင်းကို စတင်ပြုလုပ်တော်မူ၏။ ထိုပြင် သမားတော်တို့သည် နန်းတွင်း၌ ပြုလုပ်သော ပွဲလမ်းသဘင် မင်းခမ်းမင်းနားသို့ ကြွရောက်ရန် ဘိတ်ခေါ်ခြင်းကို ခံကြရသည်။ မင်းခမ်းမင်းနားသို့ သွားသောအခါ မှူးကြီးမတ်ကြီးတို့ ဝတ်ဆင်သကဲ့သို့ မိမိတို့အဆင့်အတန်းအလိုက် ပေးထားသော ခေါင်းပေါင်းဖြူဖော့လုံးနှင့်အင်္ကျီရှည်ကြီးများကို ဝတ်ဆင်ကြရ၏။ ဘုရင်မင်းမြတ် ရွှေတော်သို့လည်း အတားအဆီးမရှိ စင်ထွက် သွားလာနိုင်ကြ၏။ တိုင်းသူ ပြည်သားတို့က သမားတော်ဟု ခွဲခြား သိနိုင်ရန် ရွှေမြိတ်ပါရှိသော ကတ္တီပါ ဆေးလွယ်အိတ်ကို လွယ်ကြရ၏။ သမားတော်တို့ တာဝန်ဝတ်တရားတွင် စစ်တိုက်ရာသို့ လိုက်ပါ၍ မကျန်းမမာသော စစ်သည်တော်နှင့် ဒဏ်ရာရရှိသော စစ်သည်တော်တို့ကို ဆေးကုသကြရသော တာဝန်ဝတ်တရားလည်းပါ၏။ ထို့အတွက် အချို့ ဆေးသမားတို့သည် သမားတော်အလုပ်ကို မလုပ်လိုကြကုန်။

အနည်းငယ် သာဓကပြရလျှင် မိတ္ထီလာမြို့ဆရာဦးထွန်းဘော်သည် ရှေးဦးစွာ ငြင်းပယ်၏။ နောက်မိတ္ထီလာဝန်က တိုက်တွန်းဘန်များသဖြင့် အစိုးရ အသိအမှတ်ပြုရန်အတွက် လျှောက်ထားရန် သဘောတူလိုက်၏။ ဦးထွန်းဘော်အား ဆရာထူး၊ ဆရာမိတ်တို့က စစ်ဆေးပြီးလျှင် (၁)နာရီ အတွင်းဝန်၊ (၂) ရွှေတိုက်ဝန်၊ (၃)သံတော်ဆင့် ဦးလှဘူး၊ (၄) ကင်းစဉ်ဝန်တောက်ဦးစံငြိမ်း၊ (၅) စာရေးတော်ကြီး ဦးမှန်း၊ ဤအရာရှိကြီးငါးဦးတို့ ထပ်မံစစ်ဆေး ထောက်ခံချက်ဖြင့် သမားတော်အဖြစ် ခံယူရသည်။

ထို့ပြင် မန္တလေးမြို့ နန်းတော်တောင်ဖက် ဟော်ကန်ရပ်နေ ဦးဝက်နှင့် ရန်နင်ဝင်းအတွင်းနေ ဦးအုန်းခိုင်တို့သည် မြို့ဝန် ဦးဆာအိုးက ထောက်ခံသော်လည်း သမားတော် မလုပ်လိုကြောင်း ငြင်းပယ်ကြသည်။

ထို့ပြင် မန္တလေးမြို့ နန်းတော်တောင်ဖက် မင်္ဂလာဈေးရပ်နေ ဦးဘေညိုသည် မြို့ဝန် ဦးပေစီ ထောက်ခံချက်ဖြင့် ဆရာထူး၊ ဆရာမိတ်၊ ဆရာလှတို့ စစ်ဆေးပြီးလျှင် (၁) အတွင်းဝန် ဦးစံငြိမ်း၊ (၂) ရွှေတိုက်ဝန် ဦးလှဘူး၊ (၃) သံတော်ဆင့်ဦးဘိုးမင်းကြီး၊(၄) မကွေးမြို့စားဝန်ထောက်မင်း၊ (၅)စာရေးတော်ကြီးဦးဘေလှိုင်ဖြူ၊ ဤအရာရှိကြီးငါးဦးတို့ ထပ်မံ စစ်ဆေးထောက်ခံချက်ဖြင့် သမားတော်အဖြစ်ခံယူရသည်။ အထူးအားဖြင့် အင်္ဂလိပ်လက်ထက်သို့ရောက်သောအခါ ဆရာဝန်များကိုသာ အသိအမှတ်ပြု၏။ တိုင်းရင်းမြန်မာဆေးဆရာများကိုကား အသိအမှတ်ပြုခြင်း မရှိတော့ပေ။

ယခုလွတ်လပ်သော ပြည်ထောင်စုမြန်မာနိုင်ငံ အစိုးရခေတ်၌ကား တိုင်းရင်းမြန်မာ ဆေးပညာကို ချီးမြှောက်အားပေးရန် ရည်ရွယ်ချက်ဖြင့် အက်ဥပဒေများ ပြဋ္ဌာန်းပြီး အက်ဥပဒေအရ စီမံအုပ်ချုပ်လျက်ရှိသည်။ **ဦးကြီးမေ**

**သမီးလှကျွန်း။** ။မြန်မာနိုင်ငံ အောက်ပိုင်း၊ ဧရာဝတီမြစ်ဝကျွန်းပေါ်ရှိ ပုသိမ်မြစ်ဝ၏ တောင်ဖက်တွင် ကျွန်းကလေးများအတော်အသင့်ရှိရာ နေဂရီကျွန်းခေါ် ဟိုင်းကြီးကျွန်းနှင့် ဒိုင်းမွန်းကျွန်းခေါ် သမီးလှကျွန်းတို့သည် ထင်ရှားသောကျွန်းများ ဖြစ်ကြသည်။ သမီးလှကျွန်းကို လိပ်ကျွန်းဟုလည်း ခေါ်ကြသည်။

သမီးလှကျွန်း၏ပုံသဏ္ဌာန်သည် မှန်ကူကွက် ပုံသဏ္ဌာန်ရှိသဖြင့် အနောက်နိုင်ငံသားတို့က ဒိုင်းမွန်းကျွန်း၊သို့မဟုတ် စိန်ကျွန်းဟု အမည်ပေးခဲ့ကြသည်။ ကျွန်း၏ အတိအကျ

တည်နေရာမှာ မြောက်ဖက်လတ္တီတွဒ် ၁၅° ၅၁′ ၃၀″နှင့် အရှေ့ဖက် လောင်ဂျီတွဒ် ၉၄° ၁၈′ ၄၅″ တွင်ဖြစ်သည်။ ဟိုင်းကြီးကျွန်းမှ တောင်ဖက် ရှစ်မိုင်အကွာတွင် တည်ရှိသည်။ သမီးလှကျွန်း၏ တောင်ဖက်စူးစူးတွင် မီးပြတိုက် တည်ထားသော အယ်ဂူအာဒါ ကျောက်တန်း တည်ရှိရာ ပုသိမ်ကမ်းခြေနှင့် ထိုအယ်ဂူအာဒါ မီးပြတိုက်(ယခု ပုသိမ် မီးပြတိုက်)အကြားတွင် သမီးလှကျွန်းက ဗဟိုကဲ့သို့ တည်ရှိနေလေသည်။ သမီးလှကျွန်းတွင်လည်း မီးပြတိုက်ရှိသည်။

သမီးလှကျွန်းသည် စတုရန်းတမိုင်ခန့် ကျယ်ဝန်း၍ အစဉ် စိမ်းလမ်းစိုပြည်သော သစ်ပင်ချုံနွယ်တို့ဖြင့် ပိတ်ဖုံးလျက်ရှိသည်။ ဒုတိယ ကမ္ဘာစစ်မဖြစ်မီက ဤကျွန်းပေါ်၌ ကြိုးမဲ့ကြေးနန်းဆက်သွယ်ရေးဌာနငယ်တခု ဖွင့်လှစ်ထားရှိသည်။ မြန်မာပြည်မကြီးမှ ကပ္ပလီကျွန်းသို့ ဆက်သွယ်ပြောကြားလိုသည့်အခါ ထိုကြိုးမဲ့ကြေးနန်းရုံမှတဆင့် ပြောရလေသည်။ ပုသိမ်မြို့နှင့်လည်း ကြေးနန်း အဆက်အသွယ်ရှိလေသည်။

ဤကျွန်း၌ အုန်းပင် အနည်းငယ်သာ ပေါက်ရောက်သည်။ ကျွန်းပတ်လည်၌ လိပ်များအုလေ့ရှိသဖြင့် လိပ်ဥများ ထွက်သောကြောင့် သမီးလှကျွန်းကို လိပ်ကျွန်းဟုလည်း ခေါ်ကြခြင်း ဖြစ်သည်။

မြန်မာလှေသမားများက သမီးလှကျွန်း၌ နတ်ကြီးသည်ဟု ယုံကြည်ကြသည်။ ထိုကြောင့် ယင်းကျွန်းအနီးသို့ ရောက်ရှိသည့်အခါ ရုန့်ရင်းကြမ်းတမ်းသော စကားများကို မပြောဝံ့ကြချေ။

**သမင်**။ ။သမင်သည် စာဗီဒီးမျိုးရင်းဝင် တောတိရစ္ဆာန် ဖြစ်၍ ခြေထောက်တွင် ခွာပါရှိသော တိရစ္ဆာန်မျိုး ဖြစ်သည်။ အဖိုသတ္တဝါများတွင် ဦးခေါင်း၌ အလွန်လှပသော ဦးချို ပါရှိသည်။အသီးအရွက်သာ စားသော စားမြုံ့ပြန်သတ္တဝါမျိုး ဖြစ်သည်။ ယင်းသည် အင်အားကြီးမားသော ကျားခြသေ့စသည့် သားရဲတိရစ္ဆာန်နှင့် ရန်သူများ၏ ဘေးရန်မှလွတ်ကင်းရန် အလွန်လျင်မြန်စွာ ပြေးလွှားသွားနိုင်သောကြောင့် ဒရယ်၊ ချေ၊ စိုင်၊ ဆတ်တို့ကဲ့သို့ပင် ခြေမြန် သတ္တဝါဟု ခေါ်သည်။ (စိုင်။ဆတ် — လည်းရှု။)

သမင်သည် ဆတ်ထက် ကိုယ်လုံးကိုယ်ထည်သွယ်သည်။ သမင်မသည် ကိုယ်လုံးပို၍ သေးသည်။ ပခုံးမှ အမြင့်လေးပေခန့် ရှိသည်။ကျွဲ နွား ဒရယ်စသော တိရစ္ဆာန်တို့၌ကဲ့သို့ ဦးချိုပါသော်လည်း သမင်ဦးချိုသည် ကျွဲနွားဒရယ်ဦးချိုမျိုးမဟုတ်ပဲ အခက်အတက်တို့နှင့် လှပသော ဦးချိုမျိုး ဖြစ်သည်။ အခက်အတက်များ နှစ်ခုမှ ရှစ်ခုအထိ ပါတတ်သည်။ ဦးချိုအလျား ၄၂ လက်မခန့် ရှိတတ်သည်။ ကျွဲ နွား ဒရယ်တို့၏ ဦးချိုသည် နှစ်စဉ် အသစ်လဲလေ့မရှိသော်လည်း သမင်ဦးချိုသည် နှစ်စဉ် အသစ်လဲရစမြဲ ဖြစ်သည်။နှစ်ခါလည်သားအရွယ်တွင် ဦးချိုစပေါက်၍ ခုနစ်နှစ်သားအရွယ်တွင် စုံစုံလင်လင် ပြည့်ပြည့်ဝဝ ပေါက်သည်။ ဆတ်၊ ဒရယ်စသည်တို့၏ ဦးချိုတို့ထက် ဘေးမှကြည့်လျှင် ပိုဝိုင်း နေသကဲ့သို့ ထင်ရသည်။ ဦးချိုသည် ဩဂုတ်လ ဧယ်တွင် စ၍ လဲတတ်သည်။ အစွမ်းကုန်ပြည့်ပြည့်ဝဝ ပြန်ဖြစ်ရန်အတွက် ရက်သတ္တပတ် ၁၀ ပတ်မှ လေးလအထိကြာတတ်သည်။ဦးချိုလဲချိန်တွင် သမင်များသည် အပြင်သို့ထွက်၍ ကျက်စားလေ့ မရှိပဲ တောနက်ထဲ၌ ခိုအောင်းနေလေ့ရှိတတ်ကြသည်။

ဦးချိုများ အသစ်လဲနေသည့် အခါတွင် ပေါက်ခါစ ဦးချိုကလေးများကို ကတ္တီပါကဲ့သို့ နူးညံ့သော အရေဖာမျိုးက ဖုံးလွှမ်းလျက်ရှိသည်။ ထိုအရေကလေးသည် အလွန်နူးညံ့လှသည်ဖြစ်ရာ အတန်ငယ်မျှ ထိခိုက်မိရုံနှင့် သွေးထွက်တတ်လေသည်။ ထိုကြောင့်ပင် ဤအခါမျိုးတွင် သမင်သည် လှည့်လည် သွားလာခြင်း မပြုပဲ တနေရာရာတွင် ခိုအောင်းနေလေ့ရှိခြင်းဖြစ်သည်။ သို့ရာတွင် အချိန်အတန်ကြာလျှင် ဦးချိုများသည် မူလအတိုင်း ပြန်လည်မာကျောလာလေသည်။ သမင်သည် ကောင်းစွာ အရွယ်မရောက်မခြင်း နှစ်တိုင်းနှစ်တိုင်း ဦးချိုတွင် အကိုင်း အခက်ကလေးများ ထပ်လောင်း ပေါက်ပွား တတ်သည် ဖြစ်ရာ သမင်၏ ဦးချိုအကိုင်းအခက်များကို ကြည့်ခြင်းအားဖြင့် ထိုသမင်၏ အသက်အရွယ်ကို ခန့်မှန်းနိုင်ပေသည်။

များသောအားဖြင့် သမင်ဟူသမျှသည် သစ်ရွက်သစ်ညွန့် သစ်ညှောက် မြက်ပင် စသည်တို့နှင့်တကွ၊ရေညှိ၊အရည်ရွမ်းသော အပင် အသီး စသည်တို့ကို အမှီပြုစားသောက် အသက်မွေးကြလေသည်။ ယင်းတို့ကို ယဉ်ပါးအောင်လည်း လွယ်ကူစွာပင် ပြုလုပ် သင်ကြားနိုင်သည်။ သမင်ငယ်ကလေးများသည် ပုံပန်းအားဖြင့် မိဖြစ်သော သမင်တို့နှင့် များစွာ တူညီသော်လည်း ကိုယ်ပေါ်၌ အပြောက်အစင်းအကျားများ ဖြစ်လျက် ရှိတတ်သည်။ သမင်မွေးသည် သိပ်သိပ်သည်းသည်း မရှိ။ ပါး၍ အနည်းငယ် ကြမ်းသည်။ သမင်ဖို၏အရောင်သည် သမင်မအရောင်ထက် ပိုရင့်သည်။ ယင်းတို့သည် ရာသီဥတု အလိုက်လည်း အမွေးအရောင် ပြောင်းတတ်သေးသည်။ အေးသည့်ရာသီတွင် အမွေးရောင် ရင့်၍ နွေရာသီတွင် အရောင်ဖျော့ကာ ဝါညိုသို့အရောင် ဖြစ်လာသည်။

သမင်တို့သည် တသားလျှင် တကောင်သာပေါက်လေ့ရှိသည်။ အထူးသဖြင့် အောက်တိုဘာလတွင် ပေါက်တတ်သည်။ အမြီးဖြူသမင်သည် တကောင်မှ သုံးကောင်အထိ အများဆုံး ပေါက်သည်။

သမင်သည် များသောအားဖြင့် ထူထပ်သော သစ်တော

နှင့် တောင်မြင့်များတွင် နေလေ့ မရှိချေ။ တောစပ်ခြုံကွယ်တွင် လှည့်လည် ကျက်စားတတ်သည်။ အကောင်အနည်းငယ်သာ အုပ်ဖွဲ့နေတတ်သည်။ နေအေးချိန် နံနက်နှင့် ညနေစောင်းတွင်သာ အစာအလို့ငှာ ထွက်၍ နေ့လယ်နေပူချိန်တွင် အရိပ်ခိုနေတတ်သည်။ တခါတရံ ညဥ့်ဖက်တွင် ထွက်၍ လယ်ယာများ၌ ဝင်ရောက်စားသောက်တတ်သည်။

တိရစ္ဆာနဗေဒပညာရှင် အသီးအသီးသည် သမင် အမျိုးအစားကို ခွဲခြားရာ၌ များစွာ အယူဝါဒ ကွဲပြားကြသည်။ သို့သော်လည်း အဓိကအားဖြင့် အစုနှစ်စုမျှသာ ခွဲခြားမှတ်သားရန် လိုသေသည်။ ပဌမ အစုတွင် အာရှတိုက် ဟိမဝန္တာ စသော တော တောင် ဒေသများ၌ တွေ့မြင်ရသော ကတိုးသမင်တမျိုးတည်းသာ ပါရှိ၏။ ဤအာရှတိုက် ကတိုးသမင်မျိုးသည် ဦးချိုမရှိသည်သာမက ထင်ရှားသော ကတိုးဂလင်းများ ပါရှိလေသည်။ ဒုတိယ အစုကြီးတွင်မူ ကျန်သောသမင်အားလုံး ပါရှိ၏။ ဤဒုတိယ သမင်မျိုးကို ဩစတြေးလီးယားတိုက်၊ နယူးဇီလန်ကျွန်း၊ အာဖရိက တောင်ပိုင်းဒေသနှင့် မက်ဒါဂက်စကာကျွန်းများမှလွဲ၍မည်သည့်အရပ်တွင်မဆို နေရာမရွေး တွေ့ရှိရတတ်သည်။ သမပိုင်း ဒေသများရှိ သမင်များသည် အပူပိုင်းဒေသရှိ သမင်တို့ထက် အရွယ်အစားတွင်သော်၎င်း၊ အလှအပ အသွင်အပြင်တွင်သော်၎င်း များစွာ သာလွန်သည်။ သို့သော်လည်း သမပိုင်းဒေသရှိ သမင်များထက် မညံ့လှသော အပူပိုင်း သမင်မျိုးလည်း ရှိပေသေးသည်။ ထိုသမင်မျိုးမှာ အိန္ဒိယနှင့် သီဟိုဠ်နိုင်ငံများတွင် ရှိတတ်သည့် အက်ဇစ်ခေါ် သမင်ပြောက်မျိုးဖြစ်သည်။

ကမ္ဘာပေါ်ရှိသမင်အသီးအသီးအနက် အတွေ့ရများဆုံးသော သမင်မျိုးမှာ ဗာဂျင်းနီးယားခေါ် အမြီးဖြူသမင်မျိုးဖြစ်၏။ ၁၇၈၄ ခုနှစ်က ဗာဂျင်းနီးယားပြည်နယ်မှသတ်ဖြတ်ဖမ်းမိသော ယင်းသမင်မျိုးကို ပဌမဆုံး နမူနာ မျိုးခွဲနိုင်သည်ကို အစွဲပြု၍ ဗာဂျင်းနီးယား ဟု ခေါ်သည်။ ယင်းကို အမေရိကန် ပြည်ထောင်စု ဒဲလဝဲယား၊ ဩရီဂန်၊ နီဗားဒါ၊ ကာလီဖိုးနီးယားစသော ပြည်နယ်တို့မှလွဲလျှင် နေရာမရွေး အနှံ့အပြား တွေ့ရတတ်သည်။ ကနေဒါနိုင်ငံတွင် ထိုဗာဂျင်းနီးယား အမြီးဖြူ သမင်မျိုးကိုပင် ဆတ် ဟူ၍ ခေါ်မှတ်မှားနေကြ၏။ အကယ်စင်စစ် ဗာဂျင်းနီးယား အမြီးဖြူသမင်မျိုး၏ အမြီးမှာ အောက်ဖက်ပိုင်းနှင့် အစွန်းအနား နေရာများတွင် ဆွတ်ဆွတ်ဖြူလျက် ရှိသည်။ မြောက်အမေရိကတိုက်တွင် အမြီးနက်သမင်မျိုး ဟူ၍ပင် သီးသန့်ရှိသေး၏။ တရုပ်နိုင်ငံ၌ တွေ့ရတတ်သော ရေသမင်များသည် ဦးချိုဟူ၍ မပါရှိပဲ ရှည်လျားသောအစွယ်သာ ပါရှိသည်။ ရေစပ်မြစ်ကမ်းနဖူးတို့၌ ပုန်း၍နေတတ်သည်။ တင်ပါးဆုံ တဝိုက်တွင် အမွေးဖြူကွက်များ ပါရှိသည်။ စိတ်လက် အေးချမ်းငြိမ်သက်စွာ နေသည့် အခါတွင် ယင်းအမွေးအားလုံးမှာ စုနေသော်လည်း ထိတ်လန့်သည့်အခါ ထိုအမွေးများသည် ပြန့်ကား၍ ထွက်လာတတ်သော ထူးဆန်းသည့် ဂျပန်စီကာ သမင်မျိုးလည်း ရှိသေးသည်။ ယင်းသမင်မျိုးကိုမန်ချူးရီးယားပြည်၌ တွေ့နိုင်သည်။ အခြားထင်ရှားသော သမင်မျိုးများမှာ နှင်းဖုန်းသော အအေးပိုင်းဇုန်ဒေသ၌ တွေ့ရတတ်သည့် တန်းဒြာသမင်၊ မြောက်အမေရိကတိုက်တွင် အတွေ့များသော ကဲရီးဗူးသမင်တို့ ဖြစ်သည်။ ကဲရီးဗူး သမင်သည် လှည်းဆွဲရန်နှင့် နို့အလို့ငှာ အလွန်အသုံးဝင်သောသမင်မျိုး ဖြစ်သည်။ (တန်းဒြာသမင်။ ကဲရီးဗူးသမင် — လည်းရှု။)

မြောက်အမေရိကတိုက်သည် သမင်မျိုးတို့ပေါက်ဖွားရာ ပင်ရင်းဒေသ ဟု ဆိုသည်။ ရှေးအခါက အမေရိကတိုက်တွင် နေရာမရွေး တွေ့ရှိရသော ဝါပတိ ခေါ် သမင်ကြီးမျိုးသည် ထွားကြိုင်း ကြီးမားလှသည်ဖြစ်ရာ တခါတရံ ငါးပေပင် ကျော်တတ်လေသည်။ ထိုသမင်ကြီးမျိုးသည် အမဲပစ်သူတို့ စည်းမဲ့ကမ်းမဲ့ပစ်ခတ်သတ်ဖြတ်မှုကြောင့်မျိုးဆက်ပပျောက်လုမတတ် တိမ်ကော သွားလေပြီ။ မြန်မာနိုင်ငံ၌ပင် ရှေးအခါက သမင် အလွန်ပေါသော်လည်း စစ်ပြီးခေတ်တွင် အမျိုးတိမ်လုနီး နည်းပါးလျက် ရှိသည်။ သမင်သည် တောစပ်၌ တွေ့ရတတ်ရုံမက ယဉ်လည်းယဉ်လွယ်သဖြင့် အဖမ်းရလွယ်မှုကြောင့် အမျိုးတုံးလွယ်ခြင်း ဖြစ်သည်။ ဘုရားလောင်း သုဝဏ္ဏသာမသည် သမင်နှစ်ကောင်ကို တပေါင်းတည်းပူပြီးလျှင် ထိုသမင်နှစ်စီးတို့၏ ကျောက်ကုန်းထက်၌ သောက်ရေအိုးကိုတင်၍အမိအဖတို့ကိုလုပ်ကျွေးရန် ရေခပ်ဆင်းလေ့ ရှိကြောင်း သုဝဏ္ဏသာမ ဇာတ်တော်ကြီး၌ ပါရှိ



သမင်ဦးချိုသည် အခက်အတက်တို့နှင့် လှပသည်။

သည်ကို ထောက်လျှင် သမင်မျိုးတို့သည် ရှေးလွန်လေပြီးသောအခါကပင် အလွန်ယဉ်လွယ်သော သတ္တဝါမျိုး ဖြစ်ကြောင်း သိသာသည်။ ယခုအခါ မြန်မာနိုင်ငံ၌ သမင်များကို မသတ်ဖြတ်ရန် အစိုးရက တားမြစ်ထားသဖြင့် အကောင်ရေတိုးလာသည်ဟု ဆိုရမည် ဖြစ်သော်လည်း ခန့်မှန်းခြေအားဖြင့် အကောင်ရေ ၂,၅၀၀ မှ ၃,၀၀၀ ထက် မပိုသေးကြောင်းဖြင့် သစ်တောဌာနမှ အဆိုရှိသည်။

၌ သမင်သားရေကို မြန်မာနိုင်ငံတွင် ရွှေမျက်ပါးလုပ်ရာ၌ အသုံးပြုကြသည်။ (ရွှေမျက်ပါး —လည်းရှု။) သို့ရာတွင် အများအပြားလိုသော ပစ္စည်းမဟုတ်သဖြင့် စီးပွားရေးအလို့ငှာ သမင်များကိုဖမ်းယူသတ်ဖြတ်ခြင်း မရှိချေ။ သမင်သားကိုစားလျှင် သမင်ကွက်ခေါ် အရေပြားရောဂါတမျိုး ဖြစ်တတ်သည်ဟု အများက အယူရှိကြသဖြင့် လူတိုင်းမစားကြသောကြောင့် ယင်းကို အသားအလို့ငှာ သတ်ဖြတ်သူနည်းပြီးလျှင် အပျော်ထမ်း တောလိုက်ယင်း ဖမ်းယူသတ်ဖြတ်ခြင်းခံရမှုသာ ရှိလေသည်။ ၁၉၅၆ ခုနှစ်တွင် အပြည်ပြည်ဆိုင်ရာ သဘာဝထိန်းသိမ်းမှု အဖွဲ့ကြီး၏ ညီလာခံ၌ မြန်မာနိုင်ငံရှိ သမင်အကောင်ရေစာရင်းကိုတင်ပြရာ မြန်မာနိုင်ငံ၌ သမင်မျိုး တိမ်ကောမည်ကို စိုးရိမ်ရသည့် အခြေအနေ မရှိတော့ကြောင်း ဆုံးဖြတ်ကြသည်။

**သမိုင်း။** ။သမိုင်း ဟူသည်မှာ အစဉ်မှတ်သားရအောင် ပြုလုပ်သောစာကို ဆိုလိုသည်။ ဘုရား၊ ဂူ၊ ကျောင်း၊ တန်ဆောင်း၊စဆွံ၊ဓမ္မသာလာ၊တန်တား၊ပုဂ္ဂိုလ်ထူး၊အကြောင်းအရာထူး စသည်တို့နှင့် စပ်လျဉ်း၍ စကားပြေဖြင့် ဖြစ်စေ၊ လင်္ကာဖြင့်ဖြစ်စေ စီကုံးရေးသားထားသည်များကို သမိုင်းဟု ခေါ်သည်။

အချို့ကလည်း သမိုင်းသည် သံပိုင်းနှင့် သဘောချင်းတူပြီးလျှင် သံပိုင်းမှ သမ္ပိုင်း၊ သမိုင်း ဖြစ်လာသည်ဟု ဆိုကြသည်။

စကားပြေနှင့် ရေးသားသော သမိုင်းများအကြောင်းကို အထူးမရေးသားတော့ပဲ လင်္ကာစပ်ဆိုထားသောသမိုင်းရေးသားနည်းကို ဖော်ပြပေအံ့။ သမိုင်းလင်္ကာ စပ်ဆိုရာ၌—

(၁) လင်္ကာစပ်ဆိုနည်းများအတိုင်း ရေးသွားသည်။

(၂) အစမှာဖြစ်စေ၊ အဆုံးမှာဖြစ်စေ သမိုင်းဟူသော စကား များသောအားဖြင့် ပါရှိတတ်သည်။ ပုံစံအားဖြင့် "သမိုင်းတန်ဆောင်၊ကမ္ဘည်းဆောင်အံ့၊ဉာဏ်ရောင်ဖြန့်ချိ၊ နှိုင်းချိန်ညှိလော့၊ လောကီအရာ" စသည်ဖြင့် သမိုင်းလင်္ကာမှန်းသိအောင် သမိုင်းဆိုသည့်ပုဒ်ကို ထည့်စပ်လေ့ ရှိကြသည်။ သမိုင်းဟူသည့်ပုဒ်ကို လင်္ကာ၏အလယ်၌ သမိုင်းမှန်း သိအောင် ထည့်သွင်း စပ်ဆို သည်လည်းရှိသည်။ ပုံစံအားဖြင့် စစ်ကိုင်းမြို့ သမိုင်းလင်္ကာတွင် 'ရန်မာန်ပယ်ခိုင်း၊ မြို့စစ်ကိုင်း၏၊ သမိုင်းလင်္ကာ၊ ဂုဏ်ကိုးဖြာကား' ဟူ၍၎င်း၊ ရှင်ပင်သက်ဘော်ရဘုရား သမိုင်းတွင် 'မင်္ဂလာသုံးဆောင်၊ ကသ်သုံးပြောင်စိမ့်၊ အခေါင်သာနှိုင်း၊တပေါင်လှိုင်း၍၊တိုင်းမြန်မာပြည်၊ သမိုင်းရှည်ဖြင့်၊ ငါးမည်အင်စုံ' ဟူ၍၎င်း အသီးအသီး စပ်ဆိုကြသည်။ အချို့ သမိုင်းလင်္ကာ စာကိုယ်များ၌မူ သမိုင်းဟူသော စာပုဒ်လုံးဝမပါပဲလည်း ရှိတတ်သည်။ ပုံစံအားဖြင့် ပုဂံပညာရှိ မွန်းကိုဆို ပုဂံမြို့ရှိ ဂူဘုရားစဉ်သမိုင်းလင်္ကာ၌ 'မဥ္ဇူဘုန်းတော်၊ သောင်းလုံးကျော်သည်၊ ထိပ်ပေါ် အထွတ်၊ ရွှေနားညွတ်လော့၊ ရိမဒ်ပေါက်ကုံ၊တမ္ဗဝတီ၊ သီရိပစ္စယာ၊ ပုဏ္ဏာဂါမ၊ ပုဂါမမည်၊ ဤငါးပြည်၌၊ဆက်ရှည်စံပယ်၊ငါးဆယ်နှင့်ငါး၊နရဖျားတို့၊တည်ထားပြုစု၊ ကောင်းမှုစေ့ချိုး၊ ကြဲစိုက်ပျိုးသည်၊ ပုထိုးစေတီ၊လက်ချောင်းစီသို့၊ရှူဤဖွယ်တိ၊ များစွာရှိလည်း၊ တွေ့မိသရွေ့၊ မစုံစေ့ခဲ့၊ ဘုန်းဘေ့နတ်လူ၊ ဉာဏ်တံချူဖြင့်၊ ဆွတ်ယူစိမ့်ဌါ၊ ထိပ်ချာတင်ရွက်၊ သီကုံးဆက်သည်၊ ရွှေခွက် သောဘာရုံဘုရား' ဟူ၍ ဖြစ်သည်။

**သမိန်ဗရမ်း။** ။သမိန်ဗရမ်းဟူသည်မှာ မွန်ဘုရင်က ချီးမြှင့်သနားသော ဘွဲ့အမည်ဖြစ်သည်။ သမိန်ဗရမ်းဟူသော ဘွဲ့ဖြင့် ရာဇဝင်တွင် ထင်ရှားသူ နှစ်ဦး ရှိသည်။ တဦးမှာ ဟံသာဝတီ ပြည့်ရှင် ဘုရင်ရာဇာဓိရာဇ် လက်ထက် ပေါ်ပေါက်၍ ကျန်တဦးမှာ ဘုရင်မကြီး ရှင်စောပုနှင့် သမက်တော် ဓမ္မစေတီမင်းတို့လက်ထက် ပေါ်သော သူရဲကောင်းဖြစ်သည်။

ပဌမ သမိန်ဗရမ်းသည် ရာဇာဓိရာဇ်၏သမက်တော် ဖြစ်သည်။ လူမျိုးထက်တိုင်းပြည်ကို ပို၍ချစ်သော သူရဲကောင်းဖြစ်သဖြင့် ရာဇဝင်တွင် ကျော်ကြားသည်။ သမိန်ဗရမ်းသည် လက်ဖျံရိုး တလုံးဘည်းရှိ၍ အလွန်သန်စွမ်းပြီးလျှင် အတိုက်အခိုက် ကျင်လျင်သည်။ အမည်ရင်းမှာ ဥပါကောင်း ဟုလည်းခေါ်သည်။ ထို့ကြောင့် ကဝိလက္ခဏာ သတ်ပုံကျမ်း၌ "ဥပါကောင်းခံ၊ ရဲအားသံ၊ လက်ဖျံရိုးမကွဲ" ဟုစပ်ဆိုထားခြင်းဖြစ်သည်။

သက္ကရာဇ် ၇၇၃ ခုနှစ်တွင် မြန်မာဘုရင်မင်းခေါင်၏သားတော် အိမ်ရှေ့မင်း မင်းရဲကျော်စွာသည် မွန်နိုင်ငံသို့ ကြည်းတပ်ရေတပ် အလုံးအရင်းနှင့် ချီ၍ လုပ်ကြံသေသည်။ ထိုနှစ် တပို့တွဲလတွင် ခဲပေါင်မြို့ကို ရလေသော် မွန်တပ်များသည် ပန်းကိုမြို့မှ ကြည်းရေနှစ်ဖက်ခံရာဘွင် မင်းရဲကျော်စွာကလည်း ကြည်းရေနှစ်ဖက်ညှပ်၍ဘိုက်သည်။ မွန်ဘုရင့်

သမက်တော် သမိန်ဗရမ်း လှေနံကို တစောင်းတိုက်မိ၏။ သမိန်ဗရမ်းလည်း လှေပေါ် မှမဆင်းပဲ ထိုးပစ်၏။ နောက်မှ ကူမည့်သူမရှိသော်လည်း သမိန်ဗရမ်းသည်မပြေး၊ အသေခံ၍ တိုက်၏။ လှေစီးများသည် အားလုံးသေချေ၏။ သရက်မြို့စားကပင် သမိန်ဗရမ်းအား 'စစ်ပျက်ချေပြီ။ လူသူလည်း ကုန်ခဲ့ချေပြီ။ သို့ကိုလည်းခံ၍တိုက်သေးသည်။ ရှုံးသလော' ဟုဆို၏။ ယင်းသို့သောအခါမှ ကြည်းကတပ်မ ပျက်သောကြောင့် သမိန်ဗရမ်း ရေသို့ဆင်းကူး၍ ကြည်းသို့တက်၏။ ဗကမတ်ဆင်ကိုစီး၍ သူရဲသုံးထောင်နှင့်တကွ တပ်ကထွက်၍ တောသို့သွား၏။ မင်းရဲကျော်စွာလည်း မြင်း နတ်ပေးကိုစီး၍ ဆင်မြင်းဗိုလ်ပါနှင့် အပြင်းလိုက်တော်မူ၏။ မွန်အမှုးအမတ်များစစ်ပျက်ချေသောကြောင့် ကိုယ်လွတ်ခွာ၍သွားကြသည်။ မြန်မာတို့လည်း တပါးသူနောက်သို့မလိုက်၊ ဗကမတ်နှင့် သမိန်ဗရမ်းကိုသာ လိုက်သည်။ ဗကမတ်ဆင် မှုန်ပြင်းလှသောကြောင့် မြန်မာတို့ မချဉ်းဝံ့။ မြင်းသည်တို့သာ ဝန်းရံဆီးဆို့၍ ထိုးပစ်ကြသည်။ သမိန်ဗရမ်းတွင် လှံကုန်လျှင် ဗကမတ်ဦးစီး ငပျံကို မြင်းသည်တို့ လှံနှင့်ထိုးမိ၍ ကျချေသည်။ နောက်ပဲ့ချိတ်ငယ်လည်း ဆင်း၍ ပြေးချေသည်။ သမိန်ဗရမ်းနှင့် အတူပါသည့် သူရဲသုံးရာကျော်တို့လည်း မြင်းသည်တို့ လက်တွင် သေချေ၏။ ဗကမတ်ဆင်မူကား အင်းတွင်ဆင်း၍ မတက်နိုင်ရှိသည်ကို မင်းရဲကျော်စွာ မြင်၍ သူရဲတို့ ဝန်းရံ ထိုးပစ်သည်ကို မသေစေနှင့် ဟု ဟစ်၍ဆို၏။ သမိန်ဗရမ်းကို ဗကမတ်နှင့်တကွ ရလေသည်။

သမိန်ဗရမ်းအား ဖမ်းဆီး၍ အင်းဝမြို့သို့ ခေါ် ဆောင်သွားကြသည်။ သူရဲကောင်းကိုချစ်မြတ်နိုးတတ်သော ဘုရင်မင်းခေါင်သည် သမိန်ဗရမ်းက မိမိ၏သစ္စာတော်ကို ခံယူကာ မိမိ၏ လက်အောက်၌ အမှုထမ်းမည်ဆိုလျှင် ကြီးစွာသော ချီးမြှောက်ခြင်းဖြင့် သူကောင်းပြုထားလို၏။ သို့ရာတွင် သူရဲကောင်းတို့မည်သည် အလွယ်တကူ သစ္စာခံရိုးမရှိသည့်အတိုင်း သုံ့ပန်းအဖြစ် ထောင်သွင်းထားရလေသည်။

ထိုအခိုက် ရှေးအထက်က မြေဒူးမြို့ကိုလာရောက်ထိပါးသဖြင့် မင်းရဲကျော်စွာတိုက်၍ ရှုံးကာ ထွက်ပြေးရသော မော်တိုမော်ကယ်စားတို့သည် တရုပ်မင်း ဥတည်ဘွားထံသို့ သွား၍ တိုင်ကြားသဖြင့် ဥတည်ဘွားသည် မစူးစမ်း မဆင်ခြင်ပဲ စစ်သည်ရဲမက်တို့ကိုစေလွှတ်ကာ အင်းဝနေပြည်တော်ကို ဝန်းရံစေသည်။ အင်းဝဘုရင် မင်းခေါင်လည်း အင်းဝမြို့တော် ပတ်ဝန်းကျင်ကို အခိုင်အလုံ စီရင်ပြီးနောက် ထွက်မတိုက်ပဲ မြို့တံခါးကိုသာ ပိတ်၍ ခံနေလေသည်။ တလခန့်ကြာသော် ဥတည်ဘွား၏ စစ်သည်တို့တွင် စားရေရိက္ခာ နည်းပါးလာလေသည်။ ထိုအခါ ဥတည်ဘွား၏ စစ်သူကြီးက မြန်မာမင်းထံ 'ရွှေနန်းသခင်ထံမှ သူရဲကောင်းတဦး ထွက်ပါစေ၊ ကျွန်တော်တို့၏ သူရဲကောင်းကာမဏိက မြင်းစီးချင်း တိုက်ပါမည်။ ရွှေနန်းသခင်၏ သူရဲကောင်းရှုံးလျှင် မော်တိုမော်ကယ်စားတို့၏ သားမယားကို ပြန်ပေးပါ။ ကျွန်တော်တို့၏ သူရဲကောင်းရှုံးလျှင် ကျွန်တော်တို့ ပြန်ပါမည်' ဟု စကားဆိုလာလေသည်။ ဆိုလာသော စကားသည် အရေးပင် သင့်သော်လည်း ဘုရင်မင်းခေါင် အဖို့ အခက်တွေ့နေသည်။ ဆင်စီး မြင်းစီး သူရဲကောင်းတို့သည် သားတော်မင်းရဲကျော်စွာနှင့် မွန်တို့ပြည်မှာချည်း ရှိလေသောကြောင့် တရုပ်သူရဲကောင်းနှင့်ထွက်တိုက်မည့်သူ မရှိ ဖြစ်နေလေသည်။ ထိုအခါ အမတ်တဦးက အင်းဝတွင် စစ်သုံ့ပန်းအဖြစ် ရောက်နေသော မွန်သူရဲကောင်း သမိန်ဗရမ်းရှိသည် မဟုတ်လော၊ သမိန်ဗရမ်းကို စုံစမ်းသော်သင့်၏ဟု လျှောက်ရာ သမိန်ဗရမ်းကို စုံစမ်းလေသည်။

မြန်မာမင်း၏ စစ်သုံ့ပန်းဖြစ်နေသော သမိန်ဗရမ်းသည် ငါကား မွန်၊ ယခုအရေးကား မြန်မာအရေးဟူ၍ သဘောမထားပဲ တတိုင်းပြည်လုံး၏ အရေး အဖြစ် မြင်သည်။ ယင်းသို့သော အမြင်မှန်ကြောင့်'ရွှေနန်းသခင်၊ ဓားတစင်း၊ လွှားတချပ်၊ ဆင်စီးချင်း၊ မြင်းစီးချင်း၊ တယောက်ချင်း တွေ့သော်၊ ဇမ္ဗူဒိပ် မြေအပြင်ဝယ် ကျွန်တော့်ကိုခံနိုင်မည်လော၊ ကြောက်သည်မရှိ' ဟု ဆိုရာ၊ ဘုရင်မင်းခေါင်သည် အားရတော်မူ၍ သမိန်ဗရမ်းကို ခေါင်းဆေးစေ၏။ စားကောင်းသောက်ဖွယ်တို့ကို ကျွေးမွေးစေ၏။ ဥတည်ဘွား၏ သူရဲကောင်း ကာမဏိကို ငါ့သား မြင်းစီးချင်းနိုင်လျှင် ငါ သူကောင်းပြုတော်မူမည်ဟုလည်း မိန့်တော်မူလေသည်။

သမိန်ဗရမ်းလည်း ဝန်ခံ၍ အင်းဝတွင် ရှိသမျှ မြင်းတို့ကို ကြည့်ရာ မကြိုက်သဖြင့် လိုက်ရှာလျှင် ကျုံးနားတွင် အစာစားနေသော မြင်းနီ မန်ကျည်းစေ့ရောင် တစီးကို မြင်မှ ကြိုက်၍ ယူပြီးလျှင် အကျိုးအကြောင်း သိအောင် ခုနစ်ရက် စီးနင်းပြီးသော် ယောကျ်ားကောင်းချင်း တွေ့စေမည် ဟု စေလေ၏။

တရုပ် သူရဲကောင်း ကာမဏိသည် မြင်းနီကြီးကို ရွှေကထိုး၍ ရွှေကုန်းနှီး တင်၍ စီးသည်။ သံချပ် ဝတ်သည်။ မျက်နှာမည်း ဓားကို ပတ္တမြားအပြည့် စီ၍ စွဲသည်။ ရွှေလှံအောင်း ခုနစ်ဆင့်နှင့် ကိုင်သည်။ နတ်မြင်းသည်နှင့်အတူ တင့်တယ်၏။

ဘုရင် မင်းခေါင်ကလည်း သမိန်ဗရမ်း စီးမည့် မြင်းတွင် မိမိကိုယ်တိုင် သုံးသည့် ပတ္တမြားကုန်းနှီးကို ဆင်ယင်စေ၍ လက်သုံးတော် ပတ္တမြားစီဓားကိုလည်း ပေးအပ်တော်မူပြီးလျှင်'ငါ့သား သည်တခါ ငါ၏အမှုတော်ကို ကြိုး၍ထမ်းပါ' ဟုဆိုကာ ကျောကိုသပ်၍ အားပေးတော်မူသည်။ သမိန်ဗရမ်းကလည်း 'နိုင်ပါစေမည်၊ ကျွန်ုပ်ထိုး၍ ကျလျှင် ခေါင်းကို ချွန်းနှင့်ချိတ်ငင် ဖြတ်ယူပြီးသော် ခြင်းတွင် ထည့်ယူလာပါမည်။ ချိတ်စရာ ချွန်းနှင့် ထည့်စရာ ခြင်းကို ပေးတော်မူ

ပါ'ဟု လျှောက်၏။ ကြားရသူအချို့က 'ယုန်မရခင် သံပရာရှာသည်'ဟု ပြက်ရယ်ပြုကြသည် ဆိုသည်။

အခါရောက်သော် သမိန်ဗရမ်းသည် ရှေးဦးစွာ မိမိကိုယ်ကို ချုံ့၍ မြင်းကို လျှင်နိုင်သမျှ လျှင်စွာ စီးပြသည်။ ကာမဏီလည်း တု၍ စီး၏။ ထိုနောက် သမိန်ဗရမ်းသည် မြင်းပေါ်၌ မတ်ရပ်ထ၍ စီးပြပြန်သည်။ ကာမဏီလည်း တု၍ စီးပြန်၏။ ထိုနောက် သမိန်ဗရမ်းသည် လက်နှစ်ဖက်ဆန့်၍ စီးပြပြန်သည်။ ကာမဏီလည်း တု၍ စီးပြန်သည်။ ကာမဏီ ထိုသို့ စီးသောအခါ ကာမဏီ၏ လက်အောက်၌ ချုပ်ကြိုးပြတ်၍ နံစပ်အသား လက်လေးသစ်ခန့် လပ်နေသည်ကို သမိန်ဗရမ်း မြင်လေသည်။ ထိုအခါ မြင်းရေးကိုကား ပြပြီးကြပေပြီ၊ ထိုးကြအံ့ဟု ဆိုလေ၏။

သမိန်ဗရမ်းသည် လှံကို နောက်ထား၍ လက်တဖက်ကို ဆန့်၍ စီးလေသည်။ ကာမဏီလည်း လက်ကိုဆန့်၍ လိုက်လေ၏။ မိမိအနီးသို့ ကာမဏီ၏မြင်း ရောက်လာသည်ကို သိသောအခါ သမိန်ဗရမ်းသည် မိမိ၏မြင်းကို လကျ်ာဖက်သို့ ရုတ်တရက် လှည့်လိုက်၏။ ထိုအခါ ကာမဏီသည် သမိန်ဗရမ်းကို ခုတ်အံ့ဟု ဓားကို မြှောက်လိုက်ရာ သမိန်ဗရမ်းသည် ကာမဏီ၏ ချုပ်ကြိုးပြတ်နေသည့်နေရာ၌ နံစပ်အသား လေးသစ်ခန့် လပ်သည်ကို လှံဖြင့် တအားထိုးလိုက်ရာ လက်ဝဲကသည် လကျ်ာသို့ ပေါက်၍ ကာမဏီ မြင်းပေါ်မှ ကျလေသည်။ သမိန်ဗရမ်းလည်း အကောင်ကို ချွန်းနှင့် ချိတ်ယူကာ ခေါင်းကိုဖြတ်၍ ခြင်းတွင် ထည့်ယူခဲ့၏။

ဘုရင် မင်းခေါင်လည်း အလွန်အားရတော်မူကာ သမိန်ဗရမ်းအား တူမတော်နှင့် စုလျားရစ်ပတ် လက်ထပ်ပေး၍ မင်းညီ မင်းသားတို့ အဆောင်အယောင်ကို ပေးတော်မူ၏။ ဆုလာဘ်များစွာလည်း ပေးတော်မူသည်။ လယ်ကိုင်းမြို့ကိုလည်း ပေးတော်မူသည်။ မင်းကသာမက ပြည်သူအပေါင်းတို့ကလည်း ဝမ်းမြောက်လှသဖြင့် ဆုလာဘ်များစွာ ပေးကြလေသည်။ ဥတည်ဘွား၏ စစ်သည်တို့လည်း အထက်ကတိစကားအတိုင်း ပြန်ကြရလေသည်။

ဤကား ရာဇဝင်၌ ထင်ရှားသည့် ပဌမ သမိန်ဗရမ်း အကြောင်းတည်း။

အခြား ထင်ရှားသော သမိန်ဗရမ်း တဦးကား အင်းဝဘုရင် မဟာသီရိသုဓမ္မရာဇာနှင့် မွန်ဘုရင်မကြီး ရှင်စောပု သမက်တော် ဓမ္မစေတီတို့ လက်ထက် ပေါ်ပေါက်ခဲ့သည်။ ပဌမ သမိန်ဗရမ်း နည်းတူပင် တရုပ်သူရဲကောင်း အမတ်စလုံကျော်ခေါင်နှင့် စီးချင်း ယှဉ်၍ တိုက်ရသူဖြစ်သည်။ သမိန်ဗရမ်း နှစ်ဦး တိုက်ပွဲမှာ ၆၃ နှစ် ခြားသည်။ ပဌမ သမိန်ဗရမ်းသည် ၇၇၆ ခုနှစ်တွင် စီးချင်း ယှဉ်တိုက်ကာ အောင်ပွဲရ၍ ဒုတိယသမိန်ဗရမ်းသည် ၈၃၉ ခုနှစ်တွင် စီးချင်းယှဉ်၍ အောင်ပွဲရသည်။

ဒုတိယ သမိန်ဗရမ်းကား နရက်(နရွဲ)အရပ်အနီး မာလာရွာနှင့် မောညပ် နှစ်ရွာကို အုပ်ချုပ်သော သူကြီးလောက်ကပိုက်၏ သားဖြစ်၍ ငယ်မည် မင်းညီတိုး ဖြစ်သည်။ လက်ဖျံတလုံးတည်းရှိ၍ အလွန်သန်မာသည်။ ဓားခုတ်၊ လှံထိုး၊ လေးပစ်၊ မြင်းစီး၊ နပန်းလုံး၊ သိုင်း စသောအတတ်တို့တွင် အလွန်ကျွမ်းကျင်၏။ အုန်းသီးကို လူ၏ဦးခေါင်းထက်တင်၍ ခွဲခုတ်ချလိုက်လျှင် အုန်းသီးထက်ခြမ်းကွဲပြတ်ကျ၏။ အသားကို ဓားမထိပေ။ လူ၏ဦးခေါင်းကို ဓားနှင့် လျှပ်၍ ခုတ်လိုက်လျှင် ကတ်ကျေးနှင့် ညီညီညာညာ ကိုက်သကဲ့သို့ ဆံပင်တို့ ပြတ်ကျ၏။ အသားကို မထိလေ။ ယင်းသို့သော အရည်အသွေးတို့ကြောင့် ဘုရင်မကြီးရှင်စောပု သဘောကျ၍ စက္ကဝါဒေဟူသော ဘွဲ့နှင့် လဂွန်းပိုင်မြို့ကို သနားတော်မူခြင်းဖြစ်သည်။ နောက်နှစ်လခန့် အကြာတွင် 'ဗရမ်း'ဟူသော ဘွဲ့နှင့် ကျုပ်ပေါ်မြို့ကို ပေးတော်မူသည်။

အထူးကား မင်းညီတိုးသည် အားနည်းသူတို့ကို အမြဲညှာတာကာ ကူညီ ခြိမ်းမြှောက်တတ်၏။ သို့ရာတွင် အားကောင်းသူ ဖြစ်ရကား ကျား-မ ကြီးငယ်မဟူ ရန်ဖြစ်နေသည်ကို တွေ့သော် နှစ်ဦးလုံးကို ကျုံး၍ ရိုက်ပစ်တတ်၏။ အယုတ်သဖြင့် ခွေးချင်း ကိုက်နေသည်ကိုပင် နှစ်ကောင်လုံးကို ရိုက်၍ ဖျဉ်တတ်၏။ ထိုကြောင့်လည်း မင်းညီတိုး ရွာထဲသို့ လျှောက်လာလျှင် မီးကို ရေနှင့် သဘ်သကဲ့သို့ အလွန်ငြိမ်ဆိမ်နေတတ်ကြ၏။

တခါသော် ကုလားတို့သည် သင်္ဘောခုနစ်စင်းနှင့် တိဂုံမြို့သို့ ရောက်လာကြ၏။ မွန်ပြည်သည် ဝပြောသည်၊ မင်းဘုန်းကြီးသည်၊ သူရဲကောင်း ပေါသည် ကြား၍ လာပါသည်။ သူရဲကောင်းချင်း တိုက်လိုပါသည်။ ကျွန်တော်တို့ ရှုံးလျှင် ကုန်အပြည့်နှင့် သင်္ဘောခုနစ်စင်းကို သိမ်းတော်မူပါ။ ကျွန်တော်တို့နိုင်လျှင် သင်္ဘောနှင့် ကုန်တန်ဖိုးကို ပေးတော်မူပါဟု လျှောက်ကြ၏။ ထိုစကားကိုကြားလျှင် ဗရမ်းသည် ဘုရင်မကြီးထံ တိုက်ခွင့်တောင်း၏။ ရလျှင် ဝတ်စားဆင်ယင် ဓားလွယ်ကာ စွဲ၍ထွက်လာ၏။ ကုလားတို့ကလည်း ဝက်ဝံကို သံကြိုးနှင့် ယူလာသည်ကို မင်း စစ်သူကြီးစသည်တို့ မြင်ကြလေသော် လူချင်းသာ တိုက်ရမည်၊ တိရစ္ဆာန်နှင့် မည်သို့ တိုက်မည်နည်းဟု ဆီးတား ဟန့်ဆိုကြသည်။ ဗရမ်းကမူ တိရစ္ဆာန်ပင် ဖြစ်စေ ကျွန်တော် တိုက်ပါမည်ဟု လျှောက်၍ ထွက်၏။ ကုလားတို့ကလည်း သူတို့ သူရဲမှာ လက်နက်မပါသဖြင့် ဗရမ်းလည်းလက်နက်စွဲကိုင်ခြင်းမပြုရန် တောင်းဆိုပြန်သဖြင့် ဗရမ်းလည်း လက်နက်ကို ပစ်ချ၍ ဝင်လေ၏။ အနီးသို့ ချဉ်းကပ်လာသော ဝက်ဝံအား လက်ကို လှမ်းပေးလိုက်၏။ ဝက်ဝံက ပါးစပ်ဟ၍ ကိုက်မည်အလုပ် လကျ်ာလက်ဖြင့် အောက်မေးစေ့ကိုဆွဲ၍ငင်လှဲ့ပစ်လိုက်သည်။ ဝက်ဝံအလဲတွင် ရင်ပတ်ကြားကို ခြေနှင့် တအားကျောက်

ကန်လိုက်ရာ ဝင်္ဂဝံသေလေသည်။ ထိုအခါ ကုလားတို့လည်း ကတိအတိုင်း သဘော်နှင့်ကုန်များကို မွန်တို့အား ပေးခဲ့ရသည်။

ထိုကြောင့် ကဝိလက္ခဏာသတ်ပုံကျမ်း၌ 'လက်ဖျံတလုံး၊ မင်းညီတုံး၊ ရှုံးလေ လူဝံကျွန်း'။ 'သမိန်ဗရမ်း၊ စစ်မှုထမ်း၊ မီးယမ်းမကူးနိုင်' ဟု ဧပ်ဆိုခဲ့ခြင်းဖြစ်သည်။

ဘုရင်မ ရှင်စောပုနောက် သမက်တော် ဓမ္မစေတီနန်းတက်သောအခါ ဗရမ်းအား ရှေးပဌမ သမိန်ဗရန်းနှင့် အလားတူစွာ စွမ်းရည်ထက်မြက်သဖြင့် သမိန်ဟူသောဘွဲ့ကိုတိုး၍ သမိန်ဗရမ်း ဟူသောဘွဲ့ တွင်စေကာ စစ်တောင်းမြို့ကို ပေး၍ ချီးမြှင့်၏။ ထိုပြင် မင်းဆွေမင်းမျိုးဖြစ်သော အမတ်ကြီး ဗညားလော၏ သမီး လေးယောက်အနက် တတိယ သမီး စောနှင်းညိုနှင့် ဆောင်နှင်းသေသည်။

တခါသော် သမိန်ဗရမ်းသည် တရုပ်ပြည်စပ် ခန္တီးမြို့ မြေခြား၌ သံတိုင် သွားရောက် စိုက်လိုကြောင်း ဓမ္မစေတီမင်းထံ ခွင့်တောင်းလေသည်။ ဘုရင်၏ အခွင့်ရလေလျှင် အရပ်ခုနစ်တောင်ရှိ ဆင်တော် (ချစ်နောင်ရင်း)ကိုစီး၍ ဂ၃၉ ခုတွင် ခန္တီးမြို့သို့ ချီတက်လေသည်။ သမိန်ဗရမ်း ခန္တီးမြို့မှ အပြန်တွင် အင်းဝဘုရင် မဟာသီဟသူရက ရမည်းသင်းမှ ဆီး၍ ဖမ်းလေ၏။ သမိန်ဗရမ်းလည်း မခံနိုင်၍ ဆင်တော်နှင့်ပြေးရာ အင်းတခု အလယ်သို့ ဆင်း၍ ဆင်တော် ပင်ပန်းသည်နှင့် ရေစိမ်နေလေသည်။ မြန်မာမင်းက သူရဲကောင်းဖြစ်၍ မပစ်မခတ်ပဲ လှေဖြင့်လွှတ်၍ ဆောင်ခဲ့စေ၏။ မြို့တွင်းသို့မူ သံလျှင်းဖြင့် ဝင်လေသည်။

တရုပ်တို့လည်း နယ်ခြားသံတိုင် စိုက်ကြောင်း ကြားသဖြင့် လာရောက် နုတ်ပစ်သည့်အပြင် မြန်မာတို့ စိုက်သည် ထင်မှား၍ အင်းဝသို့ လာရောက် ပဏ္ဏာတောင်းလေသည်။ မရမှ စီးချင်းတိုက်ရန် စကားဆို၍ မြန်မာဖက်မှ သုံ့ပန်း သမိန်ဗရမ်းနှင့် တရုပ်ဖက်မှ တရုပ်သူရဲကောင်း စလုံကျော်ခေါင်တို့ တိုက်ကြရ၏။ တရုပ်သူရဲကောင်း ကျလေသည်။

အင်းဝဘုရင်လည်း အလွန် ဝမ်းမြောက် အားရတော်မူသဖြင့် အင်းဝတွင် နေလိုက ဓမ္မစေတီမင်းက ချီးမြှောက်သည်နှင့်အမျှ ငါချီးမြှောက်တော်မူမည်။ ဟံသာဝတီသို့ပြန်လိုက ပို့ပေးမည်ဟု မိန့်တော်မူ၏။ သမိန်ဗရမ်းကလည်း မိမိရပ်ဌာန် သားမယားများရှိရာ ပြန်လိုကြောင်း လျှောက်သည်နှင့် အဝတ်အစား ရတနာရွှေငွေ ဆုလာဘ်များစွာ ပေးကာ လှေ့ကား လက်ပြည့်နှင့် ဟံသာဝတီအရောက် ကောင်းစွာ ပို့တော်မူသည်။

သမိန်ဗရမ်းသည် လက်ရုံးရည်သာ မဟုတ် နှလုံးရည်လည်း ကောင်းသည်။

တခါသော် ဓမ္မစေတီမင်းသည် သမိန်ဗရမ်းအား မင်းတမန်အဖြစ်ဖြင့် သီဟိုဠ်မင်းသို့ စေလိုက်၏။ သီဟိုဠ်မင်းက သိင်္ဂုတ္တရကုန်း၌ ဘုရားလေးဆူ၏ ဓာတ်တော်ဆံတော်များ တည်နေပုံကို မေးရာ သမိန်ဗရမ်းသည် စေ့စေ့စပ်စပ် တိတိကျကျ ဖြေဆိုနိုင်လေသည်။ ထိုနောက် သီဟိုဠ်မင်းက ဓမ္မစေတီမင်း၏ အလုံးအယပ် အရောင်အဆင်း အနေအထိုင် အသွားအလာ အကြည့်အရှုတို့ကို မေးရာ သမိန့်ဗရမ်းက 'ဤတွင် တူသူမရှိ၍ မပြနိုင်ပါ' ဟု ဆိုလေသည်။

သီဟိုဠ်မင်းက 'ငါ့ဖိုးတော်ကဲ့သို့လော' ဟု မေး၏။

'ဖိုးတော် မြင့်လွန်းပါသည်'

'ငါ့နောင်တော်ကဲ့သို့လော'

'နိမ့်လွန်းပါသည်'

'ငါ့ဦးရီးတော်ကဲ့သို့လော'

'ဦးရီးတော် ဝလွန်းပါသည်'

'ငါ့ဖထွေးတော်ကဲ့သို့လော'

'ဖထွေးတော် ကုံ့လွန်းပါသည်'

'ငါ့အမတ်လေးပါးကဲ့သို့လော'

'တယောက်ကား ကြီးသည်။ တယောက်ကား ခွင်သည်။ တကောက်ကား ကုန်းသည်။ တယောက်ကား ငုံ့လျိုးပါသည်'

'ဤသို့ဖြစ်လျှင် ငါနှင့် တူသလော'

'ယခု ထိုင်နေတော်မူ၍ မလျှောက်သာပါ၊ ရပ်၍ပြတော်မူပါ'၊ ထိုအခါ သီဟိုဠ်မင်း ရပ်၍ ပြသည်။

'အရှင်မင်းကြီး၊ အရှင်မင်းကြီး၏ အဆင်းအသွင်တော်သည် လပြည့်ဝန်းကဲ့သို့ရှိပါသည်။ အဆွေတော် ဟံသာဝတီမင်းမှာ ဆန်းသစ်သော လကဲ့သို့ ရှိပါသည်။ ထိုပြင် အရှင်မင်းကြီးကား နေမင်းကဲ့သို့ အဆွေတော်ကား လမင်းကဲ့သို့ ရှိပါသည်' ဟု လျှောက်ကြားလေသည်။

သီဟိုဠ်မင်းက သူ့အား လပြည့်ဝန်း၊ နေမင်းတို့နှင့် နှိုင်း၍ လျှောက်သဖြင့် ဝမ်းမြောက်တော်မူကာ ဆုလာဘ်များစွာ ပေးတော်မူသည်။ သို့ရာတွင် လပြည့်ဝန်း ဟူသည်မှာ ပြည့်ဖြိုး၍ တင့်တယ်သော်လည်း ရှေ့သို့ တိုးတက်ရန် မရှိတော့ပြီ။ တဖြည်းဖြည်းသာ ဆုတ်ရလေတော့မည်။ ဆန်းသစ်သော လ ဟူသည်မှာ တနေ့တခြား ပြည့်ဖြိုးတင့်တယ်ဖို့သာရှိသည် ဟူသော အဓိပ္ပာယ်ဖြင့် နှိုင်းခိုင်းခြင်း ဖြစ်သဖြင့် မိမိ ဘုရင်အားလည်း ချီးမြှင့်ပြောရာ ရောက်လေသည်။ နေမင်းသည် အခြံအရံမရှိ၊ လမင်းသည် ကြယ်တာရာ အခြံအရံအပေါင်းဖြင့် တင့်တယ်သဖြင့် မိမိ ဘုရင်အား ပညာရှိ မှူးမတ် အခြံအရံ ပြည့်စုံတင့်တယ်သည် ဟူသော အဓိပ္ပာယ်ဖြင့် လျှောက်ခြင်းလည်း ဖြစ်သည်။ သီဟိုဠ်မင်းကလည်း နေမင်းနှင့် အနှိုင်းခံရ၍ အားရတော်မူသည်။

ဤသို့လျှင် နှုတ်ရည်၌ လိမ္မာ ပါးနပ်သော မင်းတမန် သမိန်ဗရမ်းကြောင့် နှစ်ပြည်ထောင် ချစ်ကြည်လေးစားမှု ပိုမို ခိုင်မြဲလာလေသည်။

အဖက်ဖက်၌ အစွမ်းထက်သော သူရဲကောင်းကြီးသမိန်ဗရမ်းသည် တခါသော် မိမိစားရသည့် စစ်တောင်းမြို့သို့ အပြန် လမ်း၌ နာမည်ကြီး သူခိုးကြီး မောင်မဲအား ဖမ်း၍ တံကျင်လျှိုကာ သတ်ထားလေသည်။ နောက်တနေ့ ဘဖန် ဟံသာဝတီမှ စစ်တောင်းအပြန် သူခိုးကြီးအား သတ်ထားသော အနီးမှ ဖြတ်အသွား သူကောင်းက'ဟဲ့လူ ပြန်ခဲ့ဦး'ဟု ခေါ်သဖြင့် ဒေါသဖြစ်ဖြစ်နှင့် ခေါင်းကို ဓားနှင့်ဖြတ်ကာ မြင်းနံဘေးတွင် ဆွဲချိတ်လျက် မြင်းကို စိုင်းခဲ့လေသည်။ လမ်းတွင် ထိုလူသေခေါင်းက သမိန်ဗရမ်း၏ တင်ပါးကို တစပ်စပ် ဟပ်၍ လိုက်၏။အိမ်ရောက်မှ ခေါင်းကို ခွဲပစ်သော်လည်း သွားတို့ကား မကျွတ်ပဲ ရှိနေသဖြင့် အနာအားကြီးလေရကား သမိန်ဗရမ်း အနိစ္စရောက်ရလေသည်။ ဓမ္မစေတီမင်းလည်း အလွန် နှမြောရှာ၏။

သမိန်ဗရမ်းကို ကြီးကျယ် ကောင်းမွန်စွာ သင်္ဂြိုဟ်ပြီးနောက် ကျန်ရစ်သူ ဇနီး စောနှင်းညိုအား ရေပွက် ဟူသော အရပ်နှင့်တကွ စားကျေးမြို့ရွာကိုင်း၊ သား မင်းရဲကျော်စောအား အဖစားရသော စစ်တောင်းနှင့် ဗရမ်း အရာကို ငင်း ပေးတော်မူလေသည်။ မှူးကြီး မတ်ကြီး မင်းညီမင်းသား သင်္ဃော သူကြွယ်တို့လည်း သမိန်ဗရမ်း၏ ဂုဏ်ကျေးဇူးကို သိမြင်စွာ သမိန်ဗရမ်းအတွက် လှူဒါန်းရန်ဟု ပစ္စည်းဥစ္စာ စုဆောင်းကြ၍ ရသော ပုဆိုးတထောင်နှင့် ရွှေလေးပိသာကို မင်းအား ဆက်ကြ၏။ ဓမ္မစေတီမင်းလည်း အလွန် ဝမ်းမြောက်လျက် ပုဆိုးတို့ကို သံဃာတို့အား လှူ၏။ ရွှေနှစ်ပိသာကို မြို့အနောက်၌ ဇရပ်တဆောင် ဆောက်၏။ ကျန် နှစ်ပိသာကို ယခု ဘုရားကလေး ဟုခေါ်သော ရွာ၌ သိမ်သမုတ်၏။

# အတ္တလန္တိတ်ပြင်ကျယ်

**ကမ္ဘာ့တိုက်ကြီးများကို ပိုင်းခြားထားသော သမုဒ္ဒရာကြီးများ၊ အဘယ်ကြောင့် သမုဒ္ဒရာရေသည် ငန်ရသနည်း၊ ရေအောက်လောက၊ သမုဒ္ဒရာသည် ကမ္ဘာ့ရိက္ခာကိုဒေါင်၊ သမုဒ္ဒရာရေထုမှ လျှပ်စစ်ဓာတ်အားထုတ်ယူရေး။**

**သမုဒ္ဒရာ။** ။ကမ္ဘာ့မျက်နှာပြင်တခုလုံး၏ဆယ်ပုံပုံ ခုနစ်ပုံသည် သမုဒ္ဒရာ ရေပြင်ကြီး ဖြစ်သည်။ ကမ္ဘာပေါ်တွင် သမုဒ္ဒရာကြီး ငါးစင်းရှိ၏။ ယင်းတို့မှာ (၁) ပစိဖိတ် သမုဒ္ဒရာ၊ (၂) အတ္တလန္တိတ် သမုဒ္ဒရာ၊ (၃) အိန္ဒိယ သမုဒ္ဒရာ၊ (၄) အာတိတ် သမုဒ္ဒရာ၊ (၅) အန္တာတိတ် သမုဒ္ဒရာ တို့ ဖြစ်ကြသည်။ ယင်းတို့အနက် ပစိဖိတ် သမုဒ္ဒရာသည် အကြီးဆုံးဖြစ်၍ အာတိတ် သမုဒ္ဒရာသည် အငယ်ဆုံး ဖြစ်သည်။

ပစိဖိတ် သမုဒ္ဒရာသည် အရှေ့ဖက်တွင် အမေရိကတိုက်နှစ်တိုက်၊ အနောက်ဖက်တွင် အာရှနှင့် ဩစတြေးလီးယားတိုက်တို့အကြား၌ ခပ်ဝိုင်းဝိုင်း သဏ္ဌာန် ရှိသည်။ စတုရန်းမိုင်ပေါင်း ၆၈,၆၃၄,၀၀၀ ကျယ်၍ ပျမ်းမျှခြင်းအားဖြင့် ပေ ၁၄,၀၅၀ နက်သည်။ ဖိလစ်ပိုင် ကျွန်းစုတွင် ပါဝင်သော မင်ဒါနာအိုကျွန်း အလွန်တွင် အနက်ဆုံးဖြစ်၍ ထိုနေရာဘွင် ပေ ၃၅,၄၁၀ ခန့် နက်သည်။ အီကွေတာမျဉ်း၏ မြောက်ပိုင်းကို မြောက်ပစိဖိတ် သမုဒ္ဒရာ ဟု ခေါ်၍ တောင်ပိုင်းကို တောင်ပစိဖိတ် သမုဒ္ဒရာ ဟု ခေါ်သည်။

အတ္တလန္တိတ် သမုဒ္ဒရာသည် အနောက်ဖက်တွင်အမေရိကတိုက် နှစ်တိုက်၊ အရှေ့ဖက်တွင် ဥရောပတိုက်နှင့် အာဖရိကတိုက်တို့အကြား၌ အင်္ဂလိပ် အက္ခရာ အက်(စ) ပုံသဏ္ဌာန် ခပ်ကောက်ကောက် တည်ရှိသည်။ စတုရန်း မိုင်ပေါင်း ၄၁,၃၂၂,၀၀၀ ကျယ်၍ ပျမ်းမျှခြင်းအားဖြင့် ပေ ၁၂,ဂဂ၀ နက်သည်။ အနောက်အိန္ဒိယ ကျွန်းစုတွင် ပါဝင်သော ပွာတိုးရီးကိုးကျွန်း အလွန်တွင် အနက်ဆုံး ဖြစ်၍ ထိုနေရာ၌ ၂၇,၉၆၅ ပေ နက်သည်။အီကွေတာမျဉ်းကြောင်း၏မြောက်ပိုင်းကို မြောက်အတ္တလန္တိတ်သမုဒ္ဒရာဟုခေါ်၍ တောင်ပိုင်းကို တောင်အတ္တလန္တိတ် သမုဒ္ဒရာ ဟု ခေါ်သည်။ မြောက်အတ္တလန္တိတ် သမုဒ္ဒရာကို ဝန်းရံထားသော နိုင်ငံများသည် ကူးသန်းရောင်းဝယ်ရေး ဖွံ့ဖြိုးသဖြင့် မြောက်အတ္တလန္တိတ် သမုဒ္ဒရာတွင် သင်္ဘော အသွားအလာ အဖြတ်အသန်း များပြားစည်ကားသည်။

အိန္ဒိယ သမုဒ္ဒရာသည် မြောက်ဖက်တွင် အာရှတိုက်၊ အရှေ့ဖက်တွင် ဩစတြေးလီးယားတိုက်၊ အနောက်ဖက်တွင် အာဖရိကတိုက်တို့အကြား၌ ခပ်ဝိုင်းဝိုင်း ပုံသဏ္ဌာန်ရှိသည်။ စတုရန်း မိုင်ပေါင်း ၂၈,၃၅၀,၀၀၀ ကျယ်၍ ပျမ်းမျှခြင်းအားဖြင့် ပေ ၁၃,၀၀၀ နက်သည်။ ဂျားဗားကျွန်း တောင်ဖက် အလွန်တွင် အနက်ဆုံးဖြစ်၍ ထိုနေရာ၌ ပေ ၂၄,၄၄၀ နက်သည်။

အန္တာတိတ် သမုဒ္ဒရာသည် တောင်ဝင်ရိုးစွန်း တဝိုက် အန္တာတိကတိုက်ကို ဝန်းရံ တည်ရှိသည်။ ပထဝီ ပညာရှင် အများက အန္တာတိတ် သမုဒ္ဒရာကို သီးခြားသမုဒ္ဒရာ တခု အနေနှင့် မယူဆပဲ အတ္တလန္တိတ်၊ ပစိဖိတ်နှင့် အိန္ဒိယသမုဒ္ဒရာတို့၏ တောင်ဖက်ဖျားပိုင်း အဖြစ် ထားရှိကြသည်။ ယင်းသမုဒ္ဒရာကြီးများနှင့် ပိုင်းခြားထားသော ကုန်းမြေ ဟူ၍ မရှိချေ။ အန္တာတိတ် သမုဒ္ဒရာသည် စတုရန်း မိုင်ပေါင်း ၇,၅၀၀,၀၀၀ ကျယ်သည်။ ရေမြေသစ်များ စူးစမ်းရှာဖွေသူတို့ တိုင်းတာခြင်း မပြုနိုင်သေးသဖြင့် အတိမ်အနက်ကို အတိအကျ မသိရသေးချေ။

အာတိတ် သမုဒ္ဒရာသည် မြောက်ဝင်ရိုးစွန်း တဝိုက်တွင်

တည်ရှိသောကြောင့် ကမ္ဘာလုံး၏ထိပ်တွင် ရှိနေသော သမုဒ္ဒရာဟု ယူဆကြသည်။ ယင်းသည် ပစိဖိတ်သမုဒ္ဒရာနှင့် ဗဲယားရင်း ပင်လယ်ဖြင့် ခြားနေ၍ အတ္တလန္တိတ်သမုဒ္ဒရာနှင့်မူ ဂရင်းလန်းကျွန်းနှင့် နော်ဝေးနိုင်ငံကြား ရေပြင်နှင့် ခြားလျက်ရှိသည်။ အကျယ်အဝန်းအားဖြင့် စတုရန်းမိုင်ပေါင်း ၅,၄၄၀,၀၀၀ ရှိ၍ ပျမ်းမျှခြင်း ၃,၈၅၅ ပေ နက်သည်။ မြောက်လတ္တီတွဒ် ၇၇°,၄၅′ နှင့် အနောက်လောင်ဂျီတွဒ် ၁၇၅° နေရာတွင် အနက်ဆုံး ဖြစ်၍ ထိုနေရာ၌ ၁၀,၄၅၆ ပေ နက်သည်။ အာတိတ် သမုဒ္ဒရာ ရေပြင်သည် အမြဲပင် ရေခဲနေလေသည်။

သမုဒ္ဒရာ ငါးစင်းတို့သည် တစင်းနှင့်တစင်း သီးသန့်ခွဲခြား၍ တည်ရှိနေကြသည် မဟုတ်ပဲ တစင်းနှင့်တစင်း ဆက်စပ်လျက် ရှိကြသည်။ အချို့နေရာတွင် တိုက်ကြီးများ ခြားနေသည့်အခါ တစင်းမှတစင်းသို့ အလွယ်တကူ ကူးသန်းသွားလာနိုင်စေရန် မြေအကျဉ်းဆုံးနေရာကို ဖြတ်၍ တူးမြောင်းများ တူးထားကြလေသည်။ အတ္တလန္တိတ်သမုဒ္ဒရာမှ အိန္ဒိယသမုဒ္ဒရာသို့ အလွယ်တကူ ဖြတ်ကူးနိုင်ရန် ဆူးအက် တူးမြောင်းကိုငင်း၊ အတ္တလန္တိတ်သမုဒ္ဒရာမှ ပစိဖိတ်သမုဒ္ဒရာသို့ အလွယ်တကူ ဖြတ်ကူးနိုင်ရန် ပနားမား တူးမြောင်းကိုငင်း ဖောက်လုပ်ထားလေသည်။ (ဆူးအက်တူးမြောင်း။ ပနားမား တူးမြောင်း — လည်းရှု။)

သမုဒ္ဒရာတို့ အောက်ခြေ မြေမျက်နှာပြင်သည် တပြေးညီညာ ရှိသည် မဟုတ်ပဲ ခွက်ကြီးသဖွယ် တဖြည်းဖြည်း အလယ်သို့ နိမ့်ဆင်းသွားလေသည်။ သမုဒ္ဒရာ၏ အနက်ဆုံးသော နေရာတွင် ကမ္ဘာပေါ်၌ အမြင့်ဆုံးဖြစ်သော ဧဝရက်တောင်ထိပ်ကို ချလိုက်လျှင် ထိုတောင်ထိပ်သည်ရေအောက်သို့ စုံးစုံး မြုပ်သွားပေလိမ့်မည်။ သမုဒ္ဒရာ၏ အောက်ခြေမြေပြင်တို့သည် ကမ္ဘာမြေပြင်ကဲ့သို့ ချောင်းမြောင်း လျှိုရိုးတို့ မရှိပဲ များသောအားဖြင့် ညီညာပြေပြစ်လျက် ရှိကြသည်။ သို့ရာတွင် အချို့နေရာ၌ တောင်တန်းကြီးများနှင့် ချိုင့်ဝှမ်းကြီးများ ရှိလေသည်။ အချို့ တောင်တန်းတို့၏ ထိပ်များသည် ရေအောက်တွင် နစ်မြုပ်မနေပဲ ရေမျက်နှာပြင်ပေါ်သို့ ထိုးထွက်ကာ ကျွန်းများဖြစ်လျက် ရှိကြသည်။ အချို့ ကျွန်းများသည် သာမန်တောင်တန်းတို့၏ တောင်ထိပ်များ မဟုတ်ပဲ မီးတောင်၏ထိပ်များဖြစ်ကြသည်။

သမုဒ္ဒရာ၏ ရေကန်ပိုင်းတွင် တဖြည်းဖြည်း အနယ်ထိုင်၍ အောက်သို့ ကျဆင်းသွားသော အမှိုက်သရိုက် အမှုန်ကလေးများနှင့်ရေသတ္တဝါကလေးများ၏ အခွံကလေးများပါသော အလွန်နူးညံ့ညက်ညောသည့် ရွှံ့ညွန်ရှိသည်။ကမ်းခြေ ဒေသများ၌ ကျောက်စရစ်နှင့် သဲများကို အများအပြား တွေ့ရှိရသည်။ ကမ်းခြေနှင့် ရေနက်ပိုင်း ကြား၌မူ ထုံးစသည်တို့ပါရှိသော ရွှံ့ညွန်များနှင့် ယင်းတို့မှ ဖြစ်သော သဲ၊ကျောက်၊ ကျောက်ဖြုန်း စသည်တို့ကို တွေ့ရသည်။

သမုဒ္ဒရာရေသည် ဆား အမြောက်အမြား ပါသဖြင့် အလွန် ငန်သည်။ သမုဒ္ဒရာရေ တပိဿာတွင် ဆား ငါးကျပ်သား၊ မက်ဂနီဆီယမ်၊ ကယ်လဆီယမ် ဗရိုမင်း စသည်တို့ အနည်းအကျဉ်း ပါဝင်သည်။ ဤသို့ သမုဒ္ဒရာရေ၌ ဆားများစွာပါဝင်ခြင်းမှာယင်းအတွင်းသို့ စီးဆင်းသောမြစ်များက ကုန်းမှဆားများကို ယူဆောင်လာခြင်း၊ ရေများသည် ရေခိုး ရေငွေ့ ဖြစ်သွားသောအခါ သမုဒ္ဒရာထဲ၌ ဆားများ ကြွင်းကျန်နေရစ်ခဲ့ခြင်းတို့ကြောင့် ဖြစ်သည် ဟု အချို့က ယူဆကြ၏။ သို့သော် သမုဒ္ဒရာမှ ရရှိသော ဆားများသည် မီးတောင်များမှ ထွက်လာသည့် ချော်ရည်သတ္တုရည်များတွင် ပါသောဆားများနှင့် လွန်စွာ တူလှသဖြင့် သမုဒ္ဒရာရေသည် ကမ္ဘာဦးကစ၍ငန်လာခဲ့သည်ဟုအချို့ကယုံကြည်ကြသည်။

သမုဒ္ဒရာရေ ဆားငန်ခြင်းသည် တနေရာနှင့် တနေရာ မတူချေ။ နေအလွန်ပူသဖြင့် ရေခိုးရေငွေ့အဖြစ်သို့ ပြောင်းလဲခြင်းကများ၍ ရေချိုများကိုယူဆောင်လာသည့်မြစ်များမှ စီးဝင်ခြင်း နည်းသောနေရာ၌ ရေပိုငန်သည်။ ကမ္ဘာပေါ်တွင် သုံးစွဲနေကြသော အိမ်သုံးဆားများ အမြောက်အမြားပင် ပင်လယ်သမုဒ္ဒရာရေမှ ချက်ယူကြသည်။ သမုဒ္ဒရာရေတွင် ရှိသော ဆားအားလုံးကို ကျိုချက်၍ ပုံလိုက်ပါက ဆားပုံကြီး၏ အကျယ်အဝန်းသည် မြန်မာနိုင်ငံထက် အဆ ၄၀ ကျော်မျှ ကျယ်ဝန်းမည် ဟု ဆိုသည်။ သမုဒ္ဒရာရေတွင် အထက်ပါ ဓာတ်သတ္တုများသာမက ရွှေလည်းရှိနိုင်သည်။ သမုဒ္ဒရာအတွင်းမှ ရွှေအားလုံးကို ထုတ်ယူနိုင်ပါက ကမ္ဘာပေါ်ရှိ လူတိုင်း လူတိုင်း တဦးလျှင် ရွှေသုံးပိဿာခန့်စီ ရရှိလိမ့်မည်ဟု တွက်ဆကြသည်။ ထို့ကြောင့် အချို့ ပညာရှင်တို့က သမုဒ္ဒရာတို့သည် ဓာတ်သတ္တုအရည်တို့ဖြင့် ပြည့်နှက်နေသော သတ္တုတွင်းကြီးဖြစ်သည်ဟု ဆိုကြခြင်းဖြစ်သည်။

အီကွေတာနားနီးသော သမုဒ္ဒရာရေသည် ဝင်ရိုးစွန်းများနှင့် နီးကပ်သော သမုဒ္ဒရာရေထက် နွေးလေသည်။ ယင်းသို့ တနေရာနှင့် တနေရာ ရေ၏ အပူအအေး မတူမှုကြောင့် တကြောင်း၊ တိုက်ခတ်နေသော လေတို့၏ လမ်းကြောင်းများကြောင့် တကြောင်း၊ ကမ္ဘာကြီးသည် ဝင်ရိုးပေါ်၌ လည်နေသောကြောင့် တကြောင်း သမုဒ္ဒရာတွင် ရေစီးကြောင်းများ ဖြစ်ပေါ်လျက် ရှိကြသည်။ ယင်းတို့သည် များသောအားဖြင့် အီကွေတာ အနီးတဝိုက်တွင် အရှေ့မှ အနောက်သို့ စီးလေ့ ရှိကြပြီးလျှင် ကမ်းခြေနားသို့ ရောက်သောအခါ ဝင်ရိုးစွန်းများဖက်သို့ လည်၍ စီးသွားလေ့ရှိကြသည်။ သမုဒ္ဒရာတို့၏ အနောက်ဖက် ကမ်းခြေများတွင် ရေနွေးစီးကြောင်းများကို တွေ့ရ၍ ကပ်စီးသွားရာ ကုန်းမြေ၏ ရာသီဥတုကို ပြောင်းလဲစေတတ်သည်။

ပင်လယ် ရေတိမ်အပိုင်း၌ မြစ်များ ယူဆောင်လာသည့် သဲများ ရွှံ့များ ရှိ၏။ ထိုထက်နက်သော အပိုင်း၌ သစ်ပင်များ၊ သတ္တဝါများ၏ အခွံအကြေးများဖြင့် ဖြစ်လာသော ဖြူယောင်ယောင် ညိုသန်းသန်း နုံးနှစ်များ ရှိ၏။ ထိုအမှုန်များမှာ အလွန်သေးငယ်၍ သာမန်မျက်စိဖြင့် မမြင်နိုင်ချေ။ အလွန်နက်သော အပိုင်းများ၌ကား ရွှံ့စေးနီများ ရှိ၏။ ထိုအောက် အနက်ဆုံးသော နေရာများ၌မူ ကျောက်သားအနှစ်များဖြင့် ပြီးလျက်နေသော မြေကို တွေ့ရသဖြင့် ထိုမြေသည်ကား ကမ္ဘာဦးက စ၍ သမုဒ္ဒရာများနှင့် အတူ တည်ရှိလာဟန် လက္ခဏာ ရှိပေသည်။

နေရောင်သည် ရေမျက်နှာပြင်အောက်သို့ ပေပေါင်း အနည်းငယ်မျှသာ ရောက်ရှိနိုင်လေရာ ရေအနက် ပေ ၆၀၀ အောက်၌ကား မြေပြင်တွင် ဖြစ်ပေါ် ပြောင်းလဲနေသည့် ရာသီဥတုမျိုးကို မတွေ့ရတော့ချေ။ ထိုအပိုင်း၌ ရေသည် အစဉ်မပြတ် ရေခဲကဲ့သို့ အေးလျက် ရှိ၏။ သမုဒ္ဒရာ ရေမျက်နှာပြင်တို့၌ များသောအားဖြင့် ရေ၏ အပူချိန်သည် အမြင့်ဆုံး ၅၆ ဖာရင်ဟိုက်ခန့် ရှိ၏။ သမုဒ္ဒရာ အားလုံး၏ ပျမ်းမျှခြင်းအပူချိန်မှာ ၃၉ ဖာရင်ဟိုက်ခန့်ရှိသည်။ ပေ ၃,၀၀၀ ခန့်နက်သော နေရာများ၌ ရေ၏ အပူချိန်သည် ၂၂ ဖာရင်ဟိုက်ခန့် ရှိ၍ ပေ ၄,၀၀၀ ခန့် ရောက်သောအခါ ၁၅ ဖာရင်ဟိုက်သာ အများဆုံး ရှိပြီးလျှင် ပေ ၉,၀၀၀ အနက်တွင် ၇ ဖာရင်ဟိုက်ခန့်သာ ရှိတော့သည်။ နွေအခါ၌ သမုဒ္ဒရာရေပြင်သည် ကုန်းမြေပြင်ကဲ့သို့ လျင်မြန်စွာ မပူတတ်ပဲ ဆောင်းအခါ၌လည်း လျင်မြန်စွာ မအေးတတ်ချေ။ သမုဒ္ဒရာ ရေမျက်နှာပြင်၏ အပူအအေးသည်၎င်း၊ လှုပ်ရှားမှုသည်၎င်း ထိုအောက်ဖက်ရှိ ရေနက်ပိုင်းကို ပြုပြင် ဖန်တီးနိုင်စွမ်းမရှိတော့ချေ။ ရေစီးကြောင်း၏ လှုပ်ရှားမှုများ မဆိုစလောက်သာရှိပြီးလျှင် ရေသည် ပကတိ ငြိမ်သက်လျက် ရှိ၏။

ရေ၏ ဖိနှိပ်အားသည်ကား ရေ၏အနက်ကို လိုက်ပြီးလျှင် တဖြည်းဖြည်း ပိုမို ကြီးမား လာလေသည်။ တမိုင်ခန့် နက်သော နေရာတွင် ရေ၏ဖိအားသည် တစတုရန်း လက်မပေါ်၌ အလေးချိန် တတန်မျှ ရှိ၏။ ခြောက်မိုင်နက်သော နေရာတွင် ရေ၏ ဖိအားသည် တစတုရန်း လက်မ ပေါ်၌ အလေးချိန် ခြောက်တန်မျှရှိလေသည်။ ယင်းသို့လျှင် ရေ၏ ဖိအားသည် ရေ၏ အနက်ကိုလိုက်၍ တိုးသွားလေသည်။

ယခုအခါ လူတို့သည် အလွန်နက်သော သမုဒ္ဒရာ အောက်ပိုင်း အကြောင်းကို နည်းအမျိုးမျိုးဖြင့် စုံစမ်းပြီး ဖြစ်၏။ အထူးပြုလုပ်ထားသော ပိုက်များ၊သံချိတ်များ၊ ပုလင်းများကို ရေအောက်မြေပြင် ရောက်အောင် ချ၍ ထိုမြေပြင်ပေါ်ရှိ သက်ရှိ သက်မဲ့ အရာဝတ္ထုများကို ဆယ်ယူကြ၏။ အထူး ပြုလုပ်ထားသော ကရိယာများဖြင့် သမုဒ္ဒရာအောက်ရှိ ရေ၏ အပူအအေးကို တိုင်းတာကြည့်ကြ၏။ ထိုသို့ စုံစမ်းခဲ့သဖြင့် သမုဒ္ဒရာအောက် မြေပြင်ပေါ်၌ မရေတွက်နိုင်အောင် များပြားလှသော သတ္တဝါအမျိုးမျိုး ရှိကြောင်းကို သိရှိရပေသည်။ သာမန်မျက်စိဖြင့် မမြင်နိုင်ပဲ မှန်ဘီလူးဖြင့်ကြည့်မှသာ မြင်နိုင်သည့် သတ္တဝါကလေးများမှ ပေ ၁၀ မျှ ရှည်လျားကြီးမားသော ဝေလငါးကြီးများအထိ သမုဒ္ဒရာထဲတွင် သတ္တဝါအမျိုးမျိုး ရှိသည်။ ခရု၊ ကနန်း၊ ဗုဇ္ဇန် တို့ကဲ့သို့သော အခွံရှိ သတ္တဝါများ၊ လိပ်ကဲ့သို့သော တွားသွားသတ္တဝါများ၊ ဝေလငါး၊ ပင်လယ်ဖျံတို့ကဲ့သို့သော နို့တိုက် သတ္တဝါများ၊ ငါး စသည်တို့ကဲ့သို့သော ဥ အုသည့် ကိုယ်ရေအေး သတ္တဝါများ ရှိကြသည်။

သမုဒ္ဒရာ၏ အလွန်နက်သော အပိုင်း၌ နေကြသော သတ္တဝါများသည် မျက်စိ ကောင်းကောင်း မမြင်ကြချေ။ အားလုံးလိုလိုပင် မီးစုန်းအလင်းရောင် ထွက်သော သတ္တဝါများ ဖြစ်ကြ၏။ ထိုသို့ အလင်းရောင် ထွက်ခြင်းမှာ အပူဓာတ်မပါပဲနှင့် အလင်းရောင် ထွက်နေခြင်း ဖြစ်၏။

ဤရေသတ္တဝါများ စားသော အစာများမှာ ဒိုင်အက်တမ်နှင့် ပလင့်ကတမ်ခေါ် ပိုးမွှားကောင်ကလေးများ ဖြစ်ကြ၏။ ထို ပိုးကောင်ကလေးများမှာ အလွန် သေးငယ်လှသဖြင့် အားကောင်းသော မှန်ဘီလူးဖြင့်ကြည့်မှသာ မြင်နိုင်၏။ ယင်းတို့သည် အံ့သြဖွယ်ကောင်းလောက်အောင် လျင်မြန်စွာ တိုးပွားကြ၍ ရေသတ္တဝါများ၏ အသက်သခင်များ ဖြစ်ကြပေသည်။

သမုဒ္ဒရာတို့၏ ရေတိမ်များ အထူးသဖြင့် ကမ်းခြေနှင့် မလှမ်း မကမ်း နေရာများ၌ အပင်တို့ ပေါက်ရောက်လျက် ရှိကြသည်။ အချို့အပင်များသည် မည်သည့် မြေကိုမျှ အမှီသဟဲ မပြုပဲ ရေအလယ်တွင် ပေါက်လေ့ ရှိကြသည်။ မည်သို့ပင် ပေါက်နေစေကာမူ အလင်းရောင်သည် ရေပြင် အတွင်းသို့ ပေပေါင်း ၁,၃၂၀ ခန့် အထိ လောက်သာ ထိုးဖောက်ဝင်နိုင်သဖြင့် အပင်တို့အဖို့ အလင်းရောင်ရမှ ရှင်နိုင်သည့် အလျောက် ထိုထက် နက်ရှိုင်းသော ဒေသ၌ အပင်များ မရှိနိုင်ဟု ယူဆကြသည်။ အပင်များ မရှိကလည်း ယင်းတို့ကို မှီတင်းနေထိုင်သော သတ္တဝါများ နေနိုင်မည် မဟုတ်ချေ။

သို့ရာတွင် တခါက မြေထဲပင်လယ်ကို ဖြတ်ကူးထားသော ကြေးနန်းကြိုးတချောင်းသည် ပင်လယ် ရေပြင်အောက် ပေ ၇,၀၀၀ အနက်လောက်၌ ရုတ်တရက် ပြတ်ကျသွားခဲ့ဘူး၏။ ထိုကြိုးစမှာ အောက်သို့ မည်မျှ နက်သည်အထိ ကျသွားသည်ကို မသိရချေ။ သို့သော် ထိုကြိုးပြတ်ကို ဆယ်ယူသောအခါ ကြိုးအဖျား၌ အလွန်သေးငယ်သော ပိုးမွှားကောင်ကလေး အများအပြား ကပ်၍ ပါလာသည်ကို တွေ့ရသဖြင့် သမုဒ္ဒရာအောက် အလွန်နက်သော နေရာများ၌ ပိုးမွှား ကလေးများ ရှိကြောင်းကို သိရှိကြရလေသည်။

သမုဒ္ဒရာသည် ကမ္ဘာ့ရိက္ခာ ဂိုဒေါင်ကြီးသဖွယ် ဖြစ်သည်။

လူတို့စားသောက်မှီဝဲရသော ငါးဗုဇွန်စသည်တို့သည် ရေထဲတွင် မကုန်ခန်းနိုင်အောင် များလေသည်။ အတ္တလန္တိတ်သမုဒ္ဒရာ၏ အမေရိကန် ကမ်းခြေတလျှောက်တွင် ကျက်စားပေါက်ပွားလေ့ရှိကြသော မင်ဟာဒင် ခေါ် ငါးတမျိုးသည် စား၍ မကောင်းသော်လည်း မြေသြဇာ ပြုလုပ်ရန်အတွက် အသုံးကျသည်။ ပန်းထိမ်သည်တို့ အသုံးပြုသော စပန်းခေါ် ပင်လယ်ရေမြှုပ်တမျိုးကိုလည်း သမုဒ္ဒရာထဲမှပင် ရရှိသည်။ အလွန် အဖိုးထိုက်တန်လှသော ပုလဲရတနာ အတွက် မုတ်ကောင် (ကမာကောင်)တို့ကိုလည်း သမုဒ္ဒရာထဲ၌ပင် ဖမ်းယူ ရရှိနိုင်သည်။

ရှေးအခါက သမုဒ္ဒရာကြီးများသည် ရေမြေ ခြား၍ အလွန်ဝေးလံသော ဒေသကြီးများကို ကူးလူးဆက်ဆံရန် တန်တိုင်းကြီးများသဖွယ်ဖြစ်ခဲ့သော်လည်း ရေကြောင်းခရီး သွားလာမှု အောင်မြင်လာသည်နှင့်အမျှ အသုံးဝင်သော ခရီးလမ်းမကြီးများ ဖြစ်လာလေသည်။

သမုဒ္ဒရာနှင့်အလွန်ဝေးသောဒေသ၌နေစေကာမူ သမုဒ္ဒရာ၏ ကျေးဇူးမှ ကင်းသူမရှိသလောက် ရှားလေသည်။ ကမ္ဘာမြေပေါ် ၌ ရွာသွန်းချသမျှမိုးရေတို့သည် သမုဒ္ဒရာရေမှ အရင်း တည်ခဲ့သည်။ ကမ္ဘာပေါ်တွင် တိုက်ခတ်သော လေတို့သည် သမုဒ္ဒရာမျက်နှာပြင်မှရေခိုးရေငွေ့များကိုသယ်ဆောင်၍ မိုးအဖြစ်ရွာချကြသည်။ မိုးရေဖြင့် လူတို့အသက်မွေး နေထိုင်ကြရသည်ချည်း ဖြစ်သည်။

သိပ္ပံပညာ ထွန်းကားသော ယခုခေတ်တွင် လူတို့သည် သမုဒ္ဒရာရေကို နဖားကြိုးတပ်၍ ခိုင်းစေရန် စမ်းသပ်လျက် ရှိကြသည်။ ပင်လယ်နီနှင့် အိန္ဒိယ သမုဒ္ဒရာတို့ကို ဆက်စပ်ထားသည့်ရေလက်ကြား ကျဉ်းကလေးကို တာတမံတုတ်၍ ပင်လယ်နီတွင်းသို့ အိန္ဒိယသမုဒ္ဒရာထဲမှ စီးဝင်လာသောရေအားကို အသုံးပြု၍ လျှပ်စစ်ဓာတ်အားထုတ်စက်များကို မောင်းနှင်စေမည်ဆိုလျှင် လျှပ်စစ်ဓာတ်အား မြင်းကောင်ရေ ငါးသန်းမျှရနိုင်မည်ဟု ဆွီဒင်နိုင်ငံသား သိပ္ပံပညာရှင် ပါမောက္ခတဦးက ခန့်မှန်းလေသည်။ ဗြိတိသျှသိပ္ပံပညာရှင်ကြီး ဟောလဒိန်းကမူ ဒီရေ အတက် အကျကို စေခိုင်း၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရန် ကြံစည်ခဲ့ဘူး၏။

သိပ္ပံပညာရှင်တို့သည် များပြားလှသော သမုဒ္ဒရာရေထုမှ နည်းသုံးနည်းဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်အသုံးချရန် ကြံစည်လျက် ရှိကြသည်။ ယင်းတို့မှာ (၁) ရေလှိုင်းအားဖြင့် လျှပ်စစ်ဓာတ်အားထုတ်ခြင်း၊ (၂) တက်လာသော ဒီရေကို သိုလှောင် ပိတ်ဆို့ထားပြီးလျှင် ထိုရေတို့ကို အတိုင်းအဆနှင့် ပြန်လွှတ်၍ လျှပ်စစ်ဓာတ်အားထုတ်ခြင်း၊ (၃) ပင်လယ်မျက်နှာပြင်ရေနှင့် ပင်လယ်အောက် ရေတို့၏ အပူခြားနားခြင်းကို အသုံးချကာ လျှပ်စစ်ဓာတ်အားထုတ်ခြင်းတို့ ဖြစ်လေသည်။

**သရဏဂုံ။** ။သရဏဂုံနှင့် စပ်လျဉ်း၍ နားလည်မှု ရရှိနိုင်ရန် –

၁။ သရဏ၊
၂။ သရဏဂမန၊
၃။ သရဏဂတ (ဥပါသကာ)၊
၄။ သရဏဂုံအပြား၊
၅။ သရဏဂုံအကျိုး၊
၆။ သရဏဂုံညစ်နွမ်းခြင်း၊
၇။ သရဏဂုံပျက်ခြင်း

ဟူသော ဤခုနစ်ပါးသောအစီအရင်ကိုသိရမည်။ ထို့ကြောင့် ထိုခုနစ်ပါးကို ဤ၌ အစဉ်အတိုင်း ပြဆိုပေအံ့။

**၁။ သရဏ**

ရတနာသုံးပါးသည် ကြောက်ခြင်းထိတ်လန့်ခြင်းကိုပယ်ဖျောက်တတ်သောကြောင့် သရဏ (ကိုးကွယ်ရာ) မည်၏။ ထိုရတနာသုံးပါးအပေါ်၌ကို ကိုးကွယ်ခြင်းသို့ ရောက်သောသူတို့၏ ထိုသို့ ကိုးကွယ်ခြင်းသို့ရောက်ခြင်းကြောင့်ပင် စိတ်၏ ကြောက်ခြင်း ထိတ်လန့်ခြင်းကိုရင်း၊ ကာယိက ဒုက္ခကိုရင်း၊ ဒုဂ္ဂတိဘဝ၌ အကျုံးဝင်သော ဆင်းရဲပူပန်ခြင်းကိုရင်း ဖျက်ဆီးတတ်သောကြောင့် သရဏ (ကိုးကွယ်ရာ) ဟု ဆိုလိုသည်။

ယင်းသို့ ဤသရဏ (ကိုးကွယ်ရာ) ဟူသော အမည်ကို ရတနာသုံးပါးအပေါင်း၏အမည် ဟူ၍ မှတ်ရမည်။

တနည်းကား မြတ်စွာဘုရားသည် သတ္တဝါတို့၏ အစီးအပွားကို ဖြစ်စေသဖြင့်ရင်း၊ အစီးအပွားမဲ့ကို နစ်စေသဖြင့်ရင်း သတ္တဝါတို့၏ ဘေးကို ဖျက်ဆီးတတ်၏။

တရားတော်သည် ဘဝ တည်းဟူသော ခရီးခဲမှကယ်တင်သောအားဖြင့်ရင်း၊ သက်သာရာကိုပေးတတ်သော အားဖြင့်ရင်း သတ္တဝါတို့၏ဘေးကို ဖျက်ဆီးတတ်၏။

သံဃာတော်သည် အနည်းငယ်မျှ ဖြစ်သော ကုသိုလ်ကောင်းမှုတို့၏လည်း များစွာသော အကျိုးကို ရအောင်ပြုသောအားဖြင့် သတ္တဝါတို့၏ဘေးကိုဖျက်ဆီးတတ်၏။

ထို့ကြောင့် ဤသို့သော ပရိယာယ်ဖြင့်လည်း ရတနာသုံးပါးအပေါင်းသည် သရဏ (ကိုးကွယ်ရာ) မည်ပေ၏။

**၂။ သရဏဂမန**

ရတနာသုံးပါး၌ ကြည်ညိုခြင်း၊ ထိုရတနာသုံးပါး၌ အရိုအသေပြုခြင်းတို့ဖြင့် ပယ်ဖျောက်အပ်ပြီးသော ကိလေသာရှိသော၊ ထိုရတနာသုံးပါးလျှင် လည်းလျောင်းရာ ရှိသည့်အဖြစ်ဟု ဆိုအပ်သော အခြင်းအရာအားဖြင့် ဖြစ်သော စိတ္တုပ္ပါဒ်သည် သရဏဂမန (ကိုးကွယ်ဆည်းကပ်ခြင်း သရဏဂုံ) မည်၏။

**၃။ သရဏဂတ ပုဂ္ဂိုလ် (ဥပါသကာ)**

ထိုစိတ္တုပ္ပါဒ်နှင့် ပြည့်စုံသောသူသည် ကိုးကွယ် ဆည်း

ကပ်ခြင်းသို့ရောက်သော သရဏဂတပုဂ္ဂိုလ်မည်၏။ဆိုခဲ့ပြီးသော အပြားရှိသော စိတ္တုပ္ပါဒ်ဖြင့် ဤရတနာသုံးပါးသည် ငါ၏ ကိုးကွယ်ရာတည်း၊ ဤရတနာသုံးပါးသည် ငါ၏ မှီခိုရာတည်းဟု ဆည်းကပ်သောဥပါသကာဟု ဆိုလိုသည်။

**၄။ သရဏဂုံအပြား**

သရဏဂုံသည် လောကုတ္တရာသရဏဂုံ၊ လောကီသရဏဂုံဟူ၍ နှစ်ပါးအပြားရှိ၏။

ထိုနှစ်ပါးတို့တွင် လောကုတ္တရာ သရဏဂုံသည်ကား —

မဂ်ခဏ၌ သစ္စာလေးပါးတရားတို့ကို သိခြင်းသည်လည်း သရဏဂုံ၏ ညစ်ညူးခြင်း ကိလေသာ တို့ကို ဖြတ်သဖြင့် နိဗ္ဗာန်ကို အာရုံပြု၍ ကိစ္စအားဖြင့် ရတနာ သုံးပါးကိုသာ အလိုရှိရကား လောကုတ္တရာ သရဏဂုံမည်၏။

လောကီသရဏဂုံသည်ကား —

သရဏဂုံ၏ ညစ်ညူးခြင်းကို ဖြစ်စေတတ်သော ကိလေသာတို့ကို ခွာသောအားဖြင့် ဘုရားအစရှိသော ရတနာသုံးပါးတို့၏ကျေးဇူးကိုအာရုံပြု၍ ပုထုဇဉ်တို့အားဖြစ်သောသဒ္ဓါ ရှေးရှိသော ဒိဋ္ဌိဇုကမ္မတည်းဟူသော ကုသိုလ် စိတ္တုပ္ပါဒ်တည်း။

ထိုလောကီသရဏဂုံသည် (က) အတ္တသန္နိယျာတန၊မိမိကိုယ်ကို ရတနာသုံးပါးအားအပ်နှင်းခြင်း၊ (ခ)တပ္ပရာယနတာ၊ ထိုရတနာသုံးပါးလျှင် လည်းလျောင်းရာရှိခြင်း၊ (ဂ) သိဿ ဘာဝူပဂမန၊ တပည့်အဖြစ်သို့ ရောက်ခြင်း၊ (ဃ)ပဏိပါတ၊ ရတနာသုံးပါး၌ ပျပ်ဝပ်ခြင်း၊ဤသို့အားဖြင့် လေးပါး အပြားရှိ၏။

ထိုလေးပါးတို့တွင် (က) အတ္တသန္နိယျာတန=မိမိကိုယ်ကို ရတနာသုံးပါးအား အပ်နှင်းခြင်း မည်သည်ကား ယနေ့မှအစပြု၍ ငါသည် မိမိကိုယ်ကို မြတ်စွာဘုရားအား အပ်နှင်းပါ၏။ တရားတော်အား အပ်နှင်းပါ၏။ သံဃာတော်အား အပ်နှင်းပါ၏ဟု ဤသို့ မြတ်စွာဘုရား စသည်တို့အား မိမိကိုယ်ကို စွန့်ခြင်းတည်း။

(ခ) တပ္ပရာယနတာ=ထိုရတနာ သုံးပါးလျှင် လည်းလျောင်းရာရှိခြင်း မည်သည်ကား ယနေ့ကိုအစပြု၍ ငါသည် မြတ်စွာဘုရားလျှင် လည်းလျောင်းရာ ရှိ၏။ တရားတော်လျှင် လည်းလျောင်းရာရှိ၏။ သံဃာတော်လျှင် လည်းလျောင်းရာ ရှိ၏ဟု အကျွန်ုပ်ကို မှတ်တော်မူပါကုန်လောဟူ၍ ဤသို့ ထိုရတနာသုံးပါးလျှင် လည်းလျောင်းရာ ရှိခြင်းတည်း။

(ဂ) သိဿ ဘာဝူပ ဂမန= တပည့် အဖြစ်သို့ ရောက်ခြင်းမည်သည်ကား ယနေ့မှ အစပြု၍ ငါသည် မြတ်စွာဘုရား၏ တပည့်တည်း။တရားတော်၏တပည့်တည်း။ သံဃာတော်၏ တပည့်တည်း ဟု အကျွန်ုပ်ကို မှတ်တော်မူကုန်လော ဟူ၍ ဤသို့ တပည့်အဖြစ်သို့ ရောက်ခြင်းတည်း။

(ဃ) ပဏိပါတ= ရတနာသုံးပါး၌ ပျပ်ဝပ်ခြင်း မည်သည်ကား ယနေ့မှ အစပြု၍ ငါသည် ရှိခိုးခြင်း၊ ခရီးဦးကြိုဆိုခြင်း၊ လက်အုပ်ချီခြင်း၊ အရိုအသေပြုခြင်းကို ဘုရားစသော ရတနာသုံးပါးတို့အားသာလျှင် ပြုပါ၏ဟု အကျွန်ုပ်ကို မှတ်တော်မူကုန်ပါလော ဟူ၍ ဤသို့ ဘုရားစသည်တို့၌ အလွန်အရိုအသေပြုခြင်းတည်း။

ဤလေးပါးသော အခြင်းအရာတို့တွင် တပါးပါးသော အခြင်းအရာကို ပြုသောသူသည် သရဏဂုံကို ယူအပ်သည်သာ ဖြစ်၏။

တနည်းကား (က) မိမိကိုယ်ကို မြတ်စွာဘုရားအား စွန့်ပါ၏။ မိမိကိုယ်ကို တရားတော်အား၊သံဃာတော်အား စွန့်ပါ၏။ အသက်ကို စွန့်ပါ၏။ ငါ၏ကိုယ်ကို စွန့်အပ်ပြီးသည်သာလျှင်တည်း။ ငါ၏ အသက်ကို စွန့်အပ်ပြီးသည်သာလျှင်တည်း။ အသက်ဆက်ဆုံး မြတ်စွာဘုရားကို ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏။မြတ်စွာဘုရားသည် အကျွန်ုပ်၏ ကိုးကွယ်ရာတည်း။ မှီခိုရာတည်း။ ပုန်းအောင်းရာတည်း။ ဤသို့လည်း မိမိကိုယ်ကို ရတနာသုံးပါးအား အပ်နှင်းခြင်း (အတ္တ သန္နိယျာတန)ကို သိအပ်၏။

(ခ) စင်စစ် ငါသည် ဆရာဖြစ်သောပုဂ္ဂိုလ်ကို ဖူးမြင်လိုလျှင် ဘုန်းတော်ကြီးသော မြတ်စွာဘုရားကိုသာလျှင် ဖူးမြင်ပါအံ့။ စင်စစ် ငါသည် ကောင်းသောစကားကို ပြောဆိုတတ်သော ပုဂ္ဂိုလ်ကို ဖူးမြင်လိုလျှင် ဘုန်းတော်ကြီးသော မြတ်စွာဘုရားကိုသာ ဖူးမြင်ပါအံ့။ စင်စစ် ငါသည် ခပ်သိမ်းသော တရားတို့ကို ကိုယ်တော်တိုင် သိမြင်သော ပုဂ္ဂိုလ်ကို ဖူးမြင်လိုလျှင် ဘုန်းတော်ကြီးသော မြတ်စွာဘုရားကိုသာလျှင် ဖူးမြင်ပါအံ့ဟု ဤသို့လည်း သံယုတ်ပါဠိတော် နိဒါနဝဂ္ဂ ကဿပ သံယုတ်၌လာသော အရှင်မဟာကဿပ သရဏဂုံကဲ့သို့ တပည့်အဖြစ်သို့ရောက်ခြင်း(သိဿဘာဝူပဂမန)ကို သိအပ်၏။

(ဂ)“ထိုငါသည် မြတ်စွာဘုရားကိုငှ်း၊ဘုရားတော်၏ ကောင်းသော တရားတော်အဖြစ်ကိုငှ်း ရှိခိုးလျက် တရွာမှ တရွာသို့ တပြည်မှ တပြည်သို့ လှည့်လည်ပေအံ့။”

ဤသို့လည်း သုတ္တနိပါတ်ပါဠိတော်အာဠဝကသုတ်လာ၊ အာဠဝကဘီလူးစသည်တို့၏သရဏဂုံကဲ့သို့ ရတနာသုံးပါးလျှင် လည်းလျောင်းရာ ရှိခြင်း (တပ္ပရာယနတာ)ကို သိအပ်၏။

(ဃ) ထိုအခါ ဗြဟ္မာယု ပုဏ္ဏားသည် နေရာမှ ထ၍ အပေါ်ရုံပုဆိုးကို ပခုံးတဖက်၌တင်၍ မြတ်စွာဘုရား၏ ခြေတော်တို့၌ ဦးခေါင်းဖြင့်တိုက်လျက် မြတ်စွာဘုရား၏ ခြေတော်တို့ကို ခံတွင်းဖြင့်စုတ်၏။ လက်တို့ဖြင့်လည်း ဆုပ်နယ်၏။ “အရှင်ဂေါတမ၊အကျွန်ုပ်သည် ဗြဟ္မာယုပုဏ္ဏားတည်း၊ အရှင်ဂေါတမ၊ အကျွန်ုပ်သည် ဗြဟ္မာယုပုဏ္ဏားတည်း”ဟု

အမည်ကိုလည်း ကြားလျှောက်၏။ ဤသို့ ရတနာသုံးပါး၌ ပျပ်ဝပ်ခြင်း (ပါဏိပါတ)ကို သိအပ်၏။

ထိုပျပ်ဝပ်ခြင်း (ပါဏိပါတ)သည်ကား (က) အဆွေအမျိုး၊ (ခ) ဘေးမှ ကြောက်ခြင်း၊ (ဂ) ဆရာသမား (ဃ) အလှူခံတို့၏ အစွမ်းအားဖြင့် လေးပါး အပြားရှိ၏။ လေးပါးတို့တွင် အလှူခံပုဂ္ဂိုလ်၌ ပျပ်ဝပ်ခြင်းဖြင့်သာလျှင် သရဏဂုံဖြစ်၏။ ဤမှ တပါးသော သုံးပါးသော အခြင်းအရာတို့ဖြင့် သရဏဂုံမဖြစ်။

ထို့ကြောင့် အလှူခံထိုက်သော မြတ်သော အထွတ်အမြတ် ကိုးကွယ်မှီခိုရာဟု သိမြင်ထင်မှတ်၍ ရှိခိုးမှသာ သရဏဂုံ ဖြစ်နိုင်ကြောင်းကိုင်၊ မဖမ်းစားပါစေခြင်း စသည့် အတွက် နတ်ကြီးအရှင်ကြီးကို လက်အုပ်ချီခြင်း စသည်ပြုရာ၌ သရဏဂုံ မပျက်ကြောင်းကိုင်း မှတ်ယူရမည်။

ဤ၌ ပြဆိုခဲ့ပြီးသော သရဏဂုံလေးမျိုးတို့တွင် ယခုကာလ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ (ဘုရားကို ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏။) စသည်ဖြင့် သရဏဂုံ ဆောက်တည်ခြင်းမျိုးသည် သဘောလက္ခဏာကို ထောက်ဆ ဆင်ခြင်လျှင် တပ္ပရာယနတာ သရဏဂုံမျိုး ဖြစ်သည်ဟု မှတ်ယူသင့်ပေသည်။ ဤတပ္ပရာယနတာ သရဏဂုံကိုပင် ခုဒ္ဒကပါဌ အဋ္ဌကထာ၌ သမာဒါနသရဏဂုံဟု အမည်တမျိုးဖြင့် ပြဆိုထားသည်ကို တွေ့ရပေသည်။

ထိုမှတပါးလည်း သရဏဂုံသည် ဒွေဝါစိကသရဏဂုံ၊ တေဝါစိက သရဏဂုံ ဟူ၍ နှစ်မျိုးရှိပြန်၏။ ထိုတွင် ဘုရားပွင့်ပြီးစအခါ ဘုရားနှင့် တရားတော်ဖြစ်ပေါ်လာပြီး တပည့်သားသံဃာတော်များ မဖြစ်ပေါ်သေးမီ အခိုက်အတန့်ကာလ၌ ဘုရားကို ကိုးကွယ်ရာဟူ၍ဆည်းကပ်ပါ၏ဟု တကြိမ်၊တရားတော်ကို ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏ဟုတကြိမ်၊ဤသို့ကိုးကွယ်ရာ နှစ်ပါးရှိ၍ နှစ်ကြိမ်ရွတ်ဆိုရသော သရဏဂုံကို ဒွေဝါစိက သရဏဂုံဟု ခေါ်သည်။ တပုဿ ဘလ္လိကတို့၏ သရဏဂုံမျိုးကို ဆိုလိုသည်။

ဘုရား၊ တရားတော်ကိုလိုက်နာကျင့်ကြံ၍ ထိုးထွင်း သိမြင်သော တပည့်သား သံဃာတော်တို့ ဖြစ်ပေါ်လာသော အခါ၌ကား ထိုသံဃာတော်ကို ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏ ဟု ယခင်နှစ်ကြိမ်တွင် ကိုးကွယ်ရာ တကြိမ် တိုးလာသဖြင့် သုံးကြိမ်ရွတ်ဆိုရသော သရဏဂုံကို တေဝါစိက သရဏဂုံဟု ခေါ်သည်။ ယခုခေတ် သရဏဂုံမျိုးလည်း တေဝါစိက သရဏဂုံမျိုးဖြစ်ပေသည်။

**၅။ သရဏဂုံ၏အကျိုး**

လောကုတ္တရာ သရဏဂုံ၊ လောကီသရဏဂုံ ဟူသော သရဏဂုံနှစ်ပါးတို့တွင် မဂ်၏ အခြားမဲ့ဖြစ်သော ဖိုလ်လေးပါးတို့သည် လောကုတ္တရာ သရဏဂုံ၏ မုချ အကျိုးရင်းမည်၏။ အလုံးစုံသော ဝဋ်ဆင်းရဲ၏ ကုန်ရာဖြစ်သော နိဗ္ဗာန်သည် အကျိုးဆက်မည်၏။

ဘဝ၏ ပြည့်စုံခြင်း ဘဝသမ္ပတ္တိသည်ရင်း၊ **စည်းစိမ်၏** ပြည့်စုံခြင်း ဘောဂသမ္ပတ္တိသည်ရင်း **လောကီသရဏဂုံ၏** အကျိုးဖြစ်၏။

**၆။ သရဏဂုံ ညစ်နွမ်းခြင်း**

နှစ်ပါးသော သရဏဂုံတို့တွင် လောကီ သရဏဂုံသည် ရတနာ သုံးပါးတို့၌ မသိခြင်း၊ ယုံမှားခြင်း၊ မှားယွင်းစွာ သိခြင်း စသည်တို့ကြောင့် ညစ်နွမ်း၏။ ကြီးသောအရောင် အဝါရှိသည် မဖြစ်။ အလွန်ကျယ်ပြန့်သော အကျိုးရှိသည် မဖြစ်။ လောကုတ္တရာ သရဏဂုံအားကား ညစ်နွမ်းခြင်း မရှိချေ။

**၇။ သရဏဂုံပျက်ခြင်း**

နှစ်ပါးသော သရဏဂုံတို့တွင် လောကီသရဏဂုံ၏ ပျက်ခြင်းသည် အပြစ်ရှိသော ပျက်ခြင်းရင်း၊ အပြစ်မရှိသော ပျက်ခြင်းရင်း ဤသို့ နှစ်ပါး အပြားရှိ၏။

ထိုနှစ်ပါးတို့တွင် အပြစ်ရှိသော ပျက်ခြင်းသည် ရတနာသုံးပါးမှတပါးသော ဆရာ(ဘုရား)စသည်တို့၌ မိမိကိုယ်ကို အပ်နှင်းခြင်း (အတ္တသန္နိယျာတန) စသည်တို့ကြောင့် ဖြစ်၏။ ထိုအပြစ်ရှိသောပျက်ခြင်းသည် မကောင်းသောအကျိုးရှိ၏။ အပြစ်မရှိသော ပျက်ခြင်းသည် သေခြင်းကြောင့်ဖြစ်၏။ ထိုအပြစ်မရှိသော ပျက်ခြင်းသည် အကျိုး (ဝိပါက်)ကို မပေးတတ်ချေ။

လောကုတ္တရာ သရဏဂုံ၏ပျက်ခြင်းသည်ကား မရှိသည်သာတည်း။ ထိုစကား မှန်၏။ အရိယာသာဝကသည် ဘဝတပါးပြောင်းသွားသော်လည်း ရတနာသုံးပါးမှ တပါး အခြားသောဆရာ(ဘုရား) ကို မညွှန်ပြ ဟု ဟောတော်မူ၏။

ဤကား သရဏဂုံနှင့် စပ်လျဉ်း၍ သိရမည့် အစီအရင်ပေတည်း။　　　　　　　　　　　　　　　**ဆရာဥာဏ်**

**သရဖီပင်။** ။သရဖီပင်သည် ပုန်းညက်ပင်နှင့် မျိုးတူဖြစ်၍ဂတ်တီဖါရီမျိုးရင်း၌ပါဝင်သည်။ရုက္ခဗေဒအမည်အားဖြင့် ကယ်လိုဖိုင်လမ် စပက်တေဗီဟု ခေါ်သည်လည်း ရှိသည်။ ကယ်လိုဖိုင်လမ် ပိုလီယန်သွမ်ဟု ခေါ်သည်လည်း ရှိသည်။ ကယ်လိုဖိုင်လမ် ကွန်စတယ်ရိုင်ဟု ခေါ်သည်လည်း ရှိသည်။ ပူအိုက်သော ရာသီဥတုရှိသည့်ဒေသများတွင် မူလ ပေါက်ရောက်ခဲ့သောအပင်ဖြစ်၍ မြန်မာနိုင်ငံ၌ တနင်္သာရီတိုင်း အမြဲစိမ်းတောများတွင် အများအပြားပေါက်ရောက်သည်။

ဝေါဟာရလီနတ္ထဒီပနီ အရမှာ သရဖီဟု ခေါ်ဝေါ်ခြင်းသည် သုရဘိသဒ္ဒါမှ ဆင်းသက်လာခြင်းဖြစ်သည်။ သုရဘိသဒ္ဒါပါဠိသည် ကောင်းသောအနံ့ဟု ဆိုသည်။ သုရဘိသဒ္ဒါပါဠိတွင် ဥသရကျေ၍ သရဘိဟု ခေါ်တွင်လာရာမှ **သရဖီ**



သရဖီပန်းပွင့်နှင့် အရွက်များ

ဟု ရေးသား ခေါ်ဝေါ်လာကြသည်။ တောင်ပုန်းညက်ပင် ဟုလည်း ယူဆရန်ရှိကြောင်း ဖော်ပြထားလေသည်။

သရဖီပင်သည် ပုန်းညက်ပင်နှင့် အနေအထားတူသည်။ ပင်စည်ဖြောင့်မတ်၍ အမြင့်ပေ ၇၀ မှ ၈၀ အထိ ရှိပြီးလျှင် လုံးပတ် ခုနစ်ပေခန့်ရှိသည်။ အရွက်များသည် ပုန်းညက် ရွက်ကဲ့သို့ ချောမွတ်ပြောင်လက်သည်။ အလျားလေးလက်မမှ ခြောက်လက်မအထိရှိသည်။ ပုန်းညက် ရွက်ကဲ့သို့ပင် ထူ၍ သားရေကဲ့သို့ မာကျောပြီးလျှင် အနားညီသည်။ ရှည်ရှည်ဝိုင်းဝိုင်းပုံသဏ္ဍာန်ရှိသည်။ ပုန်းညက်ရွက် နည်းတူ အလယ်အကြောမမှ အကြောငယ်များ ထင်ရှားစွာ ယှဉ်ပြိုင်ထွက်ပေါ်နေသည်။

ပုန်းညက်နှင့် ခြားနားသော အခြား အချက်တရပ်မှာ အပွင့်ပွင့်ပုံမတူခြင်းဖြစ်သည်။ ပုန်းညက်ကဲ့သို့ အခိုင်လိုက် မပွင့်ပဲ၊ အကိုင်းအခက်များမှ အပွင့်ကလေးများတပွင့်ချင်း ထွက်ပွင့်သည်။ အပွင့် ညှာတံတို၍ အပွင့်ကြဲသည်။ အပွင့်ကလေးများသည် ကဲ့ကော်ပွင့် အသေးစားကလေးများနှင့် ဆင်ဆင်တူ၍ ဝတ်ဆံ အဝါရောင်ရှိသော အဖြူပွင့်ကလေးများဖြစ်သည်။ သင်းပျံ့သောရနံ့ရှိသည်။ ဇေယျရန္တမိတ်ဆို "ဆောင်းဘုံဌာနေ" ချီရတုတွင် ဖွံ့နွဲ့ သကဲ့သို့ "ဝတ်ဆံရွှေခဲ၊ ပုလဲချပ်စီ"ထားသည့်နှယ် လှပ ယဉ်ကျေးသော သရဖီပန်းကလေးများကို အမျိုးသမီးတို့ ပန်ဆင်ရန် နှစ်သက်ကြသည်။

တပေါင်းလ အခါသမယ၌ သရဖီပန်းများ ဖူးပွင့်ကြလေရာ ရှေးမြန်မာ စာဆိုကြီးများသည် တပေါင်းလရာသီဘွဲ့များ၌ သရဖီပန်းအကြောင်းကို ထည့်သွင်းစပ်ဆိုကြသည်။ အမျိုးသမီး စာဆိုတော် မယ်ခွေ ၏ ဆဲ့နှစ်ရာသီ အဲချင်း ၁၂ ပုဒ်အနက် တပေါင်းလဘွဲ့၌ –

"....နွေဦးမှတိမ်ခ၊ တောတောင်တလီ၊မှိုင်းဝေရီနှင့်၊ကတ္တီပါပေါင်း၊ရွက်သစ်ကယ်လောင်း၊ ရွက်ဟောင်းပျံ့လို့၊ခက်ရံမှဝေဝေ၊ အင်ကြင်းသရဖီ၊ ပန်းစုံစီနှင့်၊ သိင်္ဂီ ရောင်သွေး၊ ကြိုင်ကြိုင်ငယ်မွှေးလို့၊ ငှက်ကျေးငယ်ခြွေသည်၊ တောင်လေပြေမှန်တိုင်းနှင့်၊ ရေလှိုင်းသံတိုး...."ဟုစပ်ဆိုခဲ့သည်။

စာဆိုတော်ကြီး ဦးမင်း၏ တပေါင်းလဘွဲ့လေးချိုးတွင်မူ "ယခေါင်စဉ်ရှည်၊ သဲစေတီ တည်မြဲမို့၊ ရှစ်မည်က မြူချီလျှင်၊ သရဖီရွှေလိုဝင်းလို့၊ အင်ကြင်းသန္တာညွန့်တို့၊ ဖူးကွန့်ကိုက်လှယ်...."ဟူ၍ သရဖီပန်းကလေးများ၏ ထင်ပေါ်သော ဝတ်ဆံအဝါရောင်ကို ရွှေရောင်နှင့် ခိုင်းနှိုင်းစပ်ဆိုခဲ့လေသည်။

သရဖီပင်၏အသားသည် ညိုဏ်။ အတော်အသင့် မာသည်။ အကြောအမျှင်များ သိပ်သည်းလျက် ပြုပြင်ရလွယ်သော သစ်ပင်မျိုးဖြစ်သည်။ သရဖီသားကို သာမန်နည်းဖြင့်အခြောက်ခံ၍ အသားသေအောင်ပြုလျှင် ကောက်ကွေး တတ်သောကြောင့် ပေါင်းဖိုတွင် အခြောက်ခံမှသာ လျှင် သစ်ကောင်းရနိုင်ပေသည်။

သရဖီသားကို လှေစပ်ခြင်း၊ အိမ်ဆောက်ခြင်း၊လှေရွက်တိုင်၊ လှည်းထမ်းပိုး စသည်တို့ ပြုလုပ်ရန် အသုံးပြုနိုင်လေသည်။

တနင်္သာရီတိုင်းတွင် ပန်းတကာခေါ် သရဖီတမျိုးရှိသေးလေသည်။

**သရဖူ။** ။ရှေး မြန်မာမင်းများ၏ အဆင်တန်ဆာတော်များအနက် သရဖူသည် မကိုဋ်တော်ကဲ့သို့ ဦးခေါင်းတော်နှင့်ဆိုင်သည့် အဆင်တန်ဆာဟု အချို့ကဆိုကြ၍ အချို့ကမူ လည်ရွဲရင်လွှမ်းတန်ဆာမျိုး ဖြစ်သည်ဟု ယူဆကြသည်။

ရာဇောဝါဒ မေတ္တာစာ၊ သမန္တစက္ခု ဒီပနီကျမ်း စသည်တို့ကို ပြုစုတော်မူခဲ့သော မုံရွေးဇေတဝန် ဆရာတော်ဘုရားကြီးက ပါရမီတော်ခန်းပျို့အဖြေကျမ်းတွင် ဤသို့ဆိုတော်မူခဲ့သည်။

"သရဖူကို ယခုအခါ ပညာရှိတို့သည် ဦးခေါင်းတန်ဆာအဝင်သွင်း၍ မကိုဋ်ဘောင်း၊ ဦးပေါင်းဦးရစ်ကဲ့သို့ ပျို့ကဗျာ လင်္ကာ ရတု စပ်ဆိုကြ၏။စာဟောင်းစာတမ်း မတွေ့ဘူးချေ။ ဦးခေါင်းတန်ဆာမှာလည်း ဘောင်း၊ မကိုဋ်၊ သင်း

ကျစ်ဟူ၍ သုံးပါးကိုသာ တွေ့ဘူးသည်။ သရဖူနှင့်တကွ လေးပါးဟူ၍ စာဟောင်းစာတမ်း မတွေ့ဘူးချေ။.... ရှေးဆရာတို့ ပျို့ကဗျာတို့၌လည်း ဦးခေါင်းဘန်ဆာ၌ တိုက်ရိုက် ထိထိ စပ်သည်ကို မတွေ့၊ လည်ရွဲ ရင်လွှမ်း တန်ဆာ၌သာ ရောရှက်၍ စပ်သည်ကို တွေ့ဘူးချေသည်။ ဘုံခန်းဘွင် ဗီရဏီ နတ်သမီး၏ အခြေအရုံတို့ ဝတ်ဆင်ဟန်ကို ပြရာ၌ 'ရောင်မောင်းပြက်ပြက်၊ ဘယက်သရဖူ၊ ရွှေခြူသင်တိုင်း၊ ဘယ်နှင့်ခိုင်း၍၊ နှိုင်းရှာပလိမ့်' ဟူ၍ငင်း၊ ဝေဋ္ဌရိယ နတ်သား ဆင်ဝတ်ဟန်တွင် 'မြနားဒွေးသည်း၊ မြက်ကောင်းပြည့်ထူ၊ သရဖူတန်ဆာ၊ လည်မှာစလွယ်၊ ဆယ့်ကိုးသွယ်သား၊ ရှူဖွယ်ရောင်ချက်၊ ဗြို့အမျက်ဆက်' ဟူ၍ငင်း၊ 'ဝင်လစေမူ၊ ရွှက်ထီးဖြူ၍၊ သရဖူလည်မာ၊တန်ဆာချစ်ဖွယ်၊ ဘယက်သွယ်နှင့်၊ စံပယ်တင့်မြတ်၊ လွတ်ကြီးလွတ်ကို' ဟူ၍ငင်း၊ ရွှေဒိမာန်ရှင် နတ်သား၏ အခြေအရံ နတ်သမီး မောင်းမတို့ ဆင်ဟန်တို့ကို ဆိုရာ၌ 'တင့်တယ်မွှေလျော်၊ ခြေရံတော်ကို၊ မြော်လတုံလည်း၊ တပုံဘည်းလျှင်၊ စုလည်းယကင်၊ စီအင်ပြောက်ကွက်၊ ဘယက်သရဖူ၊ ရွှေခြူ သင်တိုင်း၊ ဆိုင်းရရိုင်းလျှင်' ဟူ၍ငင်း၊ ဘူရိဒတ်လက်ာတွင် ဘူရိဒတ်နဂါးမင်းကို နဂါးမတို့ ဆင်ယင်၍ ခစားဟန်ပြရာ၌ 'ညီလာခစား၊ ထံပါးမကွေ၊ ကိုယ်ဘြပ်နေလျက်၊ ရွှေကွန်ရက်နှင့်၊ ဘယက်သရဖူ၊ ရွှေခြူရင်လွှမ်း၊ ရွှေခြည်မွှမ်း၍' ဟူ၍ငင်း....ဤသို့ စသည်ဖြင့် ရင်လွှမ်းတန်ဆာ၊ လည်ရွဲတန်ဆာ စသည်တို့နှင့် အနီးအပါး ပြု၍ စပ်သည်။

"ဆုတောင်းခန်းတွင် 'ဆန်းကြွယ်မွှမ်းသား၊ ရင်လွှမ်းရွှေခြူ၊ သရဖူမကိုဋ်၊ ဦးစိုက် ပန်းခက်၊ ကွက်ရရွက်တည်း၊ လက်လက်ငြိသား....' ဟူ၍ငင်း၊ မဃ္ဃစိုးခန်းတွင် 'သုံးမြှောင့်မျက်ရုံ၊ ကြာဝတ်ဆံနှင့်၊ အလုံ့ ပြောင်ပြောင်၊ ထိပ်ခေါင်လူလူ၊ သရဖူတပ်တပ်၊ နပန်ယပ်လည်း....' ဟူ၍ငင်း ဤသို့ စသည်ဖြင့် ရင်လွှမ်းတန်ဆာ၏ အနီးအပါး၌ စပ်သည်။ တိုက်ရိုက်အားဖြင့် ဦးခေါင်းတန်ဆာ ဖြစ်ကြောင်းကို မသိသာလွှန်း ရှိသည်။"

ယင်းသို့ မုံရွေးဆရာတော်ဘုရားကြီး ကိုးကား ပြဆိုခဲ့သည်များကို အထောက်အထားပြုသော် သက္ကရာဇ် ၁၀၀ ကျော်ခန့် အင်းဝခေတ်အတွင်းက ပေါ်သော စာဟောင်းစာတမ်းများအရ သရဖူကို လည်ရွဲရင်လွှမ်း တန်ဆာနှင့်တွဲ၍ တမျိုး၊ ဦးခေါင်းတန်ဆာဖြစ်သော မကိုဋ်နှင့်တွဲ၍ တဖုံ နှစ်မျိုးနှစ်ဖုံ တွေ့ရှိရသောကြောင့် မည်သည့်အဆင်တန်ဆာမျိုးဖြစ်သည်ကို အတိအကျ ယူဆရန် ခက်လေသည်။

ရွှေဘုံနိဒါန်း၌မူ ဘောင်းတော်ဆောင်အကြောင်းပြဆိုရာတွင် ဘောင်းတော်၊ သရဖူတော်၊ မကိုဋ်ဘော်၊ ပတ္တမြားဘောင်းတော်၊ နဝရတ်ဘောင်းတော်၊ ရွှေသားဘောင်းတော်....များကို ခေါက်တုံ့ပြင်ဆင်ထားရာဖြစ်၍၊ ဘောင်းတော်ဆောင် ခေါ်ဝေါ် သမုတ်ကြောင်းဖြင့် ဆိုသည်။ ဘောင်းတော်၊ မကိုဋ်တော် စသော ဦးခေါင်းတော်တန်ဆာများတွင် သရဖူတော်ကိုထည့်၍ ပြထားသည်ကို ထောက်သော် ထိုခေတ်၌ သရဖူတော်သည် မကိုဋ်တော် ဘောင်းတော်တို့ကဲ့သို့ ဦးခေါင်းတန်ဆာဖြစ်ကြောင်း သိသာသည်။

ရန်ကုန်မြို့ အတွင်းဝန်များရုံးပညာရေးဌာနစာရေးကြီး ဦးစံဘက မန္တလေးမြို့ တောင်ငူ ကိုးခရိုင်ဝန်မင်း၊ မင်းကြီး မဟာမင်းထင်ရာဇာထံ မကိုဋ်တော်၊ သရဖူတော်၊ ဥဏှိသ်တော်၊ စည်းပုံတော်၊ ဥသျှောင်တော်များ အကြောင်း လျှောက်ထားမေးမြန်းသဖြင့် ဖြေကြားချက်တွင် သရဖူတော်သည် ဘုရင် မင်းကေရာဇ်မှတပါး အခြားသူတို့မဆင်ရသော ဦးခေါင်းတန်ဆာမျိုး ဖြစ်ကြောင်း ပုံဖြင့် သေချာစွာ ရေးဆွဲ ဖော်ပြဖြေဆိုခဲ့လေသည်။ ပုံတွင် သရဖူသည် မကိုဋ်တော်ကဲ့သို့ပင် ခေါင်းဆောင်း တန်ဆာဖြစ်၍ အသေးစိတ် ခြယ်လှယ်ပုံ၌သာ ခြားနားကြောင်း တွေ့ရသည်။

ထိုကြောင့် သရဖူသည် ရှေးက လည်ရွဲရင်လွှမ်းတန်ဆာကိုပင် ခေါ်ဟန်ရှိသည်။ သက္ကရာဇ် ၁၀၀ ကျော်လောက်တွင်မှ ရင်လွှမ်းတန်ဆာမှ ဦးခေါင်းတန်ဆာအရာသို့ ကူးပြောင်းသည်။ သို့ ကူးပြောင်းမှုကြောင့် လူတို့သည် လည်ရွဲနှင့် ဦးခေါင်း မကွဲမပြား ရောထွေးယှက်တင်ရှိသည်။ အင်းဝခေတ်



မြန်မာမင်းတို့၏ ဦးခေါင်းတန်ဆာဖြစ်သော မကိုဋ်



သရဖူ ဆောင်းထားသော လောကနတ် ရုပ်လုံး

နောက်ပိုင်း၊ သို့မဟုတ် ကုန်းဘောင်ခေတ်တွင်မူကားလည်ရှိ တန်ဆာ လုံးဝပျောက်၍ ဦးခေါင်းတန်ဆာအဖြစ် ကွဲကွဲပြား ပြားရောက်လာသည်ဟု အချို့ပညာရှင်တို့ကယူဆကြသည်။

သက္ကရာဇ် ၁၁၉၂ ခုနှစ်တွင် ဝက်မစွတ် နဝဒေး ရေး အင်းဝမြို့ မဟာအောင်မြေဘုံသာကျောင်း ကျောက်စာ၌—

"ပလ္လင်တော်နီး၊ ပြောင်ကြီးပေါက်သား၊ တောဖျား ခြသေ့်၊ စာရှာတွေ့သော်၊ ခြသေ့်မရှိက်၊ ပင်မတိုက်တီ၊ အကြိုက်တော်မှတ်၊လောကနတ်ကား၊လက်ဝါးဖြန့်ချုပ်၊ စည်းစုပ်ကားခြေ၊ ဗောင်းရွှေသရဖူ၊ မြဲဥ မြိတ်နား၊ စုလျားဘယက်၊ ညီးညီးလက်မျှ၊ ပုံကွန်ကလျှင်၊ နှစ်ပါး ရန်စ၊ ငြိမ်းစေရသတည်း။"

ဟု ပါရှိရာ လောကနတ်ဆောင်းသော ခေါင်းဆောင်းရတနာ သည် သရဖူဟု အတိအလင်း သိရလေသည်။ လောကနတ် ရုပ်လုံးရုပ်တုများ၌ ဆောင်းထားသော သရဖူပုံသည် မကိုဋ် နှင့်ကွဲ၍ ဘောင်းနှင့် ပို၍တူသည်။ မကိုဋ်သည် ပြာသာဒ်ပုံ အဆင့်ဆင့်တက်၍ ထိပ်သို့ ချွန်သွားသော်လည်း သရဖူ ကား ဘောင်းကဲ့သို့ ပုံတွင် ထိပ်မှ အချွန်ပါခြင်းမျှသာ ဖြစ် သည်။ ဘောင်းကို ဝန်များဆောင်းရသော်လည်း သရဖူကို ဝန်များ ဆောင်းခွင့်မရှိ၊ဘုရင်များသာ ဆောင်းခွင့်ရှိသည်။

ယခုခေတ် အနောက်နိုင်ငံများရှိ လူများကမူ များသော အားဖြင့် သရဖူဟု ဆိုရာတွင် ရှင်ဘုရင်များနှင့် မိဖုရားများ မင်းခမ်းမင်းနားများ၌ ဦးခေါင်းတွင် ဆောင်းလေ့ရှိသော ဦးခေါင်းတန်ဆာကို ခေါ်သည်ဟု နားလည်ကြပေသည်။ ထိုအဓိပ္ပာယ်ဖြင့်သာလျှင်လည်း သရဖူဟူသော စကားကို သုံးစွဲလေသည်။သို့ရာတွင် မူလက သရဖူသည် နန်းထိုင်သော ဘုရင်နှင့်မည်သို့မျှသက်ဆိုင်ခြင်း မရှိခဲ့ပေ။ရှေးခေတ် ပြေးပွဲ ပြိုင်ပွဲများတွင် အောင်ပန်း ဆွတ်ခူးသူများအား ပန်းများ ဖြင့် ပြုလုပ်ထားသော သရဖူများကို ခြီးမြှင့်ရိုးရှိခဲ့ဘူး လေသည်။ထိုနောက်တွင်ကား သရဖူကို ပန်းကုံး ပန်းပွင့်တို့ ဖြင့် မဟုတ်ပဲ၊ ထာဝစဉ် ခိုင်ခံ့သော ရွှေငွေကျောက်မျက် ရတနာတို့ဖြင့် ပြုလုပ်လာခဲ့ကြလေသည်။ ရှေးခေတ် ရောမ လူမျိုးများသည် သူရသတ္တိကို ပြသည့် မြင့်မြတ်သော အပြု အမူများအတွက် ဂုဏ်ပြုသည့် အထိမ်းအမှတ်အဖြစ်ဖြင့် ရွှေ သရဖူ ငွေသရဖူများ ခြီးမြှင့်လေ့ရှိကြ၏။ ပမာအားဖြင့် မြို့တမြို့ကို သိမ်းပိုက် အောင်မြင်သော စစ်ဗိုလ်ချုပ်ကြီး တယောက်အား ထိုမြို့အနီးမှ ခူးနုတ်၍ရသော မြက်ပင်များ ပန်းပွင့်များဖြင့် ပြုလုပ်ထားသည့် သရဖူကို ခြီးမြှင့်လေ သည်။ ထိုနည်းတူစွာ တိုက်ပွဲတွင် မိမိ၏ ဖက်တော်သား ရဲဘော်တယောက်၏ အသက်ကို ကယ်ဆယ်ခဲ့သော စစ်သည် တော်တဦးအား ဝက်သစ်ချရွက်များဖြင့် ပြုလုပ်သော သရဖူ ကို ခြီးမြှင့်လေသည်။ အခြားသရဖူ အမျိုးမျိုးများလည်း ရှိသေး၍ မင်္ဂလာဆောင်များ၊ ပျော်ပွဲသဘင်များ၊ စားပွဲ သောက်ပွဲများ၊ ဈာပနအခမ်းအနားများတွင် သက်ဆိုင်ရာ သရဖူများကို အသုံးပြုကြသည်။



ရောမဘုရင်များ ဆင်မြန်းတတ်သည့် ဦးရစ်

အချို့သော ရောမနိုင်ငံတော် ဘုရင်များသည် ပြေးပွဲ ခုန်ပွဲများသို့ ရှုစားရန် ကြွရောက်တော်မူကြသည့်အခါတွင် ဦးရစ်များကို ဆင်မြန်းတော်မူတတ်ကြပေသည်။ သို့ရာတွင် ထိုသို့ ဦးရစ်များကို ဆင်မြန်းခြင်းသည် ဘုရင်မင်းမြတ် တည်းဟူသော ရာထူးနှင့် မူလက မည်သို့မျှ သက်ဆိုင်ခြင်း မရှိခဲ့ပေ။ သို့ဖြစ်၍ ရောမဘုရင်များသည် နောင်အခါတွင် ဦးရစ်များကို မင်းတို့၏ အဆောင်အယောင် တခုအဖြစ် စတင် အသုံးပြုကြသောအခါ တိုင်းသူ ပြည်သား များက များစွာ မနှစ်မြို့ကြချေ။ လူများသည် ဦးရစ်နှင့် သရဖူ ကို ရုတ်တရက် မခွဲခြားနိုင်ကြသော်လည်း စင်စစ် ထိုနှစ်ခု မှာ များစွာ ခြားနားလေသည်။ ထိုကြောင့် သရဖူဟူ၍ ရှင်ဘုရင်တို့သာ ဆောင်းသော အလေ့မှာ အရှေ့တိုင်းမှ အတုယူခဲ့ကြောင်း ထင်ရှားပေသည်။

ဦးရစ် ဆိုသည်မှာ စာမျက်နှာ ၄၅ အောက်ပုံတွင် ပြထား သည့်အတိုင်း ဖြစ်၏။သရဖူများမှာ အောက်ပုံတွင် ပြထား သည့်အတိုင်း ဖြစ်လေသည်။ ရှေးခေတ်သုံး ဦးရစ်နှင့် ယခု ခေတ် အသုံးပြုလျက်ရှိကြသော သရဖူများသည် တခုနှင့် တခု ပုံသဏ္ဌာန်ချင်း များစွာ မကွာခြားသည့်အကြောင်းမှာ ယခုခေတ်သရဖူများကို ရှေးခေတ်သုံး ဦးရစ်၏ ပုံသဏ္ဌာန်ကို ယူ၍ ပြုလုပ်ထားသောကြောင့် ဖြစ်လေသည်။

ထိုနောက် သရဖူကို ဘုရင်အာဏာပိုင်များသာ ဆောင်း ရရိုးဖြစ်သော အစဉ်အလာ သတ်မှတ်သောအခါ သရဖူများ တွင် ဘုရင်များ မိဖုရားများ ဆောင်းသော သရဖူ၊ မင်းညီ မင်းသားများ ဆောင်းသော သရဖူ၊ မြို့စား ရွာစားများ ဆောင်းသော သရဖူ စသည်ဖြင့် သရဖူပုံသဏ္ဌာန်အမျိုးမျိုး ရှိလေသည်။ သရဖူအားလုံးတွင် ဘုရင်ဆောင်းသော သရဖူ မှာ အဆင့်အတန်း အမြင့်ဆုံးဖြစ်၏။ မင်းညီမင်းသား မြို့စား ရွာစားများမှာကား ဘုရင်ဆောင်းသော သရဖူ အောက် အဆင့်အတန်း နိမ့်သော သရဖူငယ်များကိုသာ ဆောင်းရလေသည်။ ယခုခေတ်တွင် အနောက်နိုင်ငံများ၌ အသုံးပြုနေကြသော မြို့စား (ဒျူ့ဘွဲ့ရများ)ဆောင်းသော သရဖူငယ်မှာ ရွှေနဖူးစီးပေါ်တွင် ရွှေဖြင့်ပြီးသော စထရော် ဗယ်ရီရွက် ရှစ်ရွက်ကို တပ်ဆင်ထားလေသည်။ မားကွစ် ဘွဲ့ရသူများ ဆောင်းသော သရဖူငယ်သည် နဖူးစီးပေါ် တွင် ထိုစထရော်ဗယ်ရီရွက်မျိုး လေးရွက်သာ ပါ၍ တရွက် နှင့် တရွက် စပ်ကြားတွင် ပုလဲလုံးများကို တပ်ဆင် ထား သည်။ မားကွစ်အောက် တဆင့်နိမ့်သော အားဘွဲ့ရများ ဆောင်းသော သရဖူများမှာ ရွှေနဖူးစည်းပေါ်တွင် ရောင် ခြည်တန်း ရှစ်သွယ်ထိုးထွက်နေ၍ ရောင်ခြည်တန်း တခုနှင့် တခု စပ်ကြားတွင် ရွှေဖြင့်ပြီးသော စထရော်ဗယ်ရီရွက် တရွက်စီ တပ်ဆင်ထား၏။ စထရော်ဗယ်ရီရွက်၏ အမြင့်မှာ ရောင်ခြည်တန်း၏ အမြင့် လေးပုံတပုံရှိသည်။ ဗိုင်းကောင့်ဘွဲ့ ရသူများဆောင်းသော သရဖူငယ်တွင်ကား ရွှေနဖူးစီးတွင် ပုလဲလုံး ၁၆ လုံး တပ်ဆင်ထားသည်။ ဗယ်ရွန်ဘွဲ့ရသူများ၏ သရဖူငယ်၌မူ ပုလဲလုံး ခြောက်လုံး တပ်ဆင်ထားလေသည်။



အင်္ဂလန်ပြည့်ရှင်များ၏ သရဖူများ။

**သရဝဏ်နက္ခတ်။** ။နက္ခတ် ၂၇ လုံး — ရှု။

**သရေခေတ္တရာ။** ။သရေခေတ္တရာမြို့ဟောင်းသည် ပြည် မြို့ အရှေ့တောင်ဖက် ငါးမိုင်ခန့်အကွာတွင် တည်ရှိသည်။ ကျုံးပတ်လည်ရံလျက်ရှိသော အုတ်မြို့ရိုးသည် စက်ဝိုင်းမကျ တကျ ဖြစ်၍ တောင်မြောက် နှစ်မိုင်ခွဲခန့်နှင့် အရှေ့ အနောက်နှစ်မိုင်ခန့် ကျယ်ဝန်းလေသည်။ရန်ကုန်မှပြည်မြို့သို့ သွားသောမီးရထားလမ်းသည် သရေခေတ္တရာမြို့ဟောင်းကို အရှေ့တောင်မှ အနောက်မြောက်သို့ ဖြတ်သန်း သွား၍ ပြည်မှ ပေါက်ခေါင်းသို့ သွားသော မော်တော်ကားလမ်း ကို မြောက်ဖက် မြို့ရိုးပေါ်သို့ဖြတ်၍ ပြုလုပ်ထားသည်။ မြို့ဟောင်းအတွင်း၌ ယခုအခါ ရွာငယ် အများအပြားရှိ၍၊ မြောက်ဖက်ပိုင်း၌မူ လယ်ကွက်များ ပြည့်နှက်နေ၏။ မှော်ဇာဘူတာရုံသည် မြို့ဟောင်း၏ ဗဟိုနေရာမှ အရှေ့မြောက် ယွန်းယွန်းတွင် တည်ရှိသည်။ ရှေးဟောင်း အဆောက်အအုံ များသည် မြို့တွင်း၌သာမက မြို့ပြင်၌လည်း အနှံ့အပြား ကျန်ရှိသေးရာ သရေခေတ္တရာ ထွန်းကားစဉ်က ထင်ရှားခဲ့ သော မြို့ပတ်ပန်းကျင် နယ်နိမိတ်မှာ ကျုံးနှင့် မြို့ရိုးပတ်ရံ




သရေခေတ္တရာမြို့ဟောင်းသည် ပြည်မြို့ အရှေ့တောင်ဖက် ငါးမိုင်ခန့်အကွာတွင် တည်ရှိသည်။ မြို့ဟောင်းရာသည် ဘဲဥပုံသည်းမက စက်ဝိုင်းပုံလည်းမကျသော အဝန်းအဝိုင်း ပုံသဏ္ဍာန်ရှိ၏

သည့် မြို့တွင်းထက် လေးဆခန့်မျှကျယ်ဝန်းကြောင်း သိနိုင်ပေလသည်။

မြို့တွင်း အလယ်ဗဟို လောက်တွင် နန်းတော်ကုန်း ဟုခေါ်သောစတုဂံအုတ်ရိုးကာရံထားသည့် ကုန်းမို့မို့ကို တွေ့နိုင်သေးသည်။ တောင်ဖက်မြို့ရိုး၏ အပြင်ဖက်တွင် အရှေ့ပျူတိုက်၊ အနောက် ပျူတိုက်၊ ဗိဿနိုးမြို့နှင့် ဗိဿနိုးမိဖုရားသင်္ချိုင်းရာတို့ ရှိလေသည်။

မှန်နန်း ရာဇဝင် အဆိုအားဖြင့် သရေခေတ္တရာ မြို့ကို သာသနာနှစ်တစ်ရာ့တစ်ခုနှစ်တွင်ဒွတ်တပေါင်(ဒွတ္တပေါင်)မင်း ပဌမတည်ထောင်သည်ဟု ဆိုသည်။ မြို့တည်နန်းတည်ရာ၌ ကူညီစောင့်ရှောက်သော သူမြတ်ခုနစ်ဦးမှာ ဂဝံပတေ့၊ ရသေ့၊ သိကြား၊နဂါး၊ ဂဠုန်၊ စန္ဒီ၊ ပရမိသွာတို့ ဖြစ်ကြ၏။ တကောင်းမင်း ယောက်ဖတော် ရှင်ရသေ့ သိတင်းသုံးသည်ကို အကြောင်းပြု၍ သရေခေတ္တရာမြို့ကို ရသေ့မြို့ဟု နောင်မှ တွင်၏။ ပြည်မြို့ ရွှေဆံတော်ဘုရားခြေရင်း၌ တွေ့ရသော ကျန်စစ်သားမင်း၏ မွန်ကျောက်စာ အလိုအားဖြင့် သရေခေတ္တရာမြို့ကို ပဌမတည်ထောင်သော မင်းမှာ ဗိဿနိုးရသေ့ကြီးဖြစ်၏။ တည်ထောင်သောနှစ်မှာ မြတ်စွာဘုရား ပရိနိဗ္ဗာန် စံယူတော်မူသောနှစ် သာသနာနှစ် ၁ နှစ် ဖြစ်၏။ ရသေ့ကြီးကို ကူညီ စောင့်ရှောက်ကြသော သူမြတ်တို့မှာ ဂဝံပတေ့၊ သိကြား၊ ဝိသကြုံနတ်သားနှင့် နဂါးမင်းတို့ဖြစ်သည်ဟု ဆို၏။ ကျန်စစ်သားမင်း၏ ကျောက်စာများအရ သရေခေတ္တရာကို သိသိတ်၊ (ဇြီ ကွတ်၊ ဇြီ ကွေတြာ)ဟူ၍လည်း ခေါ်တွင်ကြောင်း သိရလေသည်။ ရှေးဟောင်းသုတေသန အထောက်အထားများ အရမှာမူ သရေခေတ္တရာမြို့သည် ခရစ်နှစ် ငါးရာစုမှ ရှစ်ရာစုအတွင်း၌ ထွန်းကားကြောင်းသာ သိရှိရသေးရာ ထိုသို့ ဖွံ့ဖြိုး တိုးတက်အောင် စတင်ပျိုးထောင်ရသော ကာလကို ထည့်သွင်းခန့်မှန်းသည် ဆိုပါမူ ခရစ်နှစ် နှစ်ရာစုထက် စောနိုင်မည် မဟုတ်ကြောင်း တွေ့ရသည်။

သရေခေတ္တရာတွင် ပျူလူမျိုးအများအပြား နေထိုင်ခဲ့ကြသည်။(ပျူလူမျိုး–ရှု။) ယင်းတို့ကိုတိရ်စုလ်ဟူ၍လည်း အမည်တွင်ခဲ့ကြောင်း ကျန်စစ်သားမွန်ကျောက်စာ တချပ် အရယူဆရသည်။ ပျူတို့ဒေသဟု ခေါ်ဆိုအပ်သော သရေခေတ္တရာနှင့် ဟန်လင်းမြို့ဟောင်းတို့မှ အိန္ဒိယ တောင်ပိုင်းအက္ခရာဖြင့်ရေးထိုးထားသောကျောက်စာများကို ထောက်၍ ပျူဘာသာနှင့် ပျူစာ သုံးနှုန်း ရေးသား ခဲ့ကြသည်ဟု ယူဆ မှတ်သားကြရသည်။ သရေခေတ္တရာခေတ်၌ ရေးထိုးသော ပျူစာများမှာ အုတ်ချပ်များပေါ် ဂဏန်းနှင့်အမှတ်အသားများ၊အုတ်ပုံနှိပ်ဘုရား (အုတ်ခွက်) နောက်ကျောမှ စာများ၊ကျောက်စာများနှင့် ကျောက်အရိုးအိုးများပေါ်မှ စာတမ်းတို့ဖြစ်လေသည်။ ယင်းတို့အနက်အချို့မှာ မေးမှိန်



**သရေခေတ္တရာ မြို့ဟောင်းရှိ ဘုရားကြီးဘုရား**

ပျက်စီးနေ၍ အတိအကျဖတ်ရှုမရနိုင်ခြင်း၊ အချို့မှာ စာကြောင်းတိုကလေးများသာဖြစ်၍ အကြောင်းအရာ မဖော်နိုင်ခြင်းနှင့် အချို့မှာပျူဝေါဟာရကျယ်ပြန့်စွာမသိရှိသေးသဖြင့် အဓိပ္ပာယ် တိမ်မြုပ်နေခြင်းတို့ကြောင့် သမိုင်းအထောက်အထား ရသင့်သလောက်မရနိုင်ချေ။

ဘုရားကြီးဘုရားအနီးမှ တွေ့ရှိရသောကျောက်အရိုးအိုးလေးလုံးတို့၏ ပတ်လည်တွင် ပျူစာတကြောင်းစီ ရေးထိုးပါရှိလေသည်။ ယင်းကျောက်စာများအရ သရေခေတ္တရာ၌ ဝိကြမမင်းဆက် စိုးမိုး အုပ်ချုပ်ခဲ့ကြောင်းသိရ၏။ သူရိယဝိကြမ၊ ဟရိဝိကြမနှင့် သိဟဝိကြမ တို့၏ နတ်ရွာစံနှစ်နှင့် သက်တော်များပါရှိရာတွင် နှန်းစံနှစ်ကို မြန်မာကောဇာနှစ်အတိုင်းမှတ်ယူတွက်ဆပါက ခရစ်နှစ် ၆ဂဂ၊ ၆၉၅ နှင့် ၇၁ဂ ခုနှစ်တို့တွင် အသီးအသီး နတ်ရွာစံကြသည်ဟု သိရှိနိုင်၏။ အရိုးအိုး စာတမ်းတခုမှာ သူရိယ ဝိကြမ၏ ဆွေမျိုး ကွယ်လွန်သည့်နှစ် ရေးထိုး ထားလေရာ စာတမ်း လေးရပ်စလုံးပေါင်းရုံးတွက်ဆပါက ဝိကြမမင်းဆက်သည် ခရစ်နှစ်၆၇၃မှ ၇၁ဂ ခုနှစ်အထိ အုပ်စိုးသည် ဟု ဆိုရပေမည်။ထိုမင်းဆက်သည် သရေခေတ္တရာ တည်ထောင်စက အုပ်စိုးသည့် မင်းဆက် ဟုတ်မဟုတ်ကိုမူ မသိသာချေ။ နတ်ရွာစံ သက္ကရာဇ်များကို အတည်ပြု မှတ်ယူရပါက ထိုမင်းများထက် ရှေးကျသောမင်းများ ရှိခဲ့ဦးမည်ဟု မှန်းဆရပေသည်။ ဝိကြမမင်းတို့၏ဘွဲ့မည်များရှေ့တွင်''တ္ဒးဗံး''ဟူသော ဂုဏ်ပုဒ်ပါရှိလေရာ ယင်းဂုဏ်ပုဒ်ကိုမင်းကြီးဟူသော အဓိပ္ပာယ်သက်ရောက်ကြောင်း အခြား ကျောက်စာများမှ အထောက်အထားတို့

နှင့် ယှဉ်၍သိသာနိုင်လေသည်။ ဒွတ္တဘောင်ဟူသောအမည်မှာတွားဖုံးမှရွေ့လျောလာသောဝေါဟာရဖြစ်ဖွယ်ရာရှိသောကြောင့် သမိုင်းလာ ဒွတ္တဘောင်ဆိုသည်မှာ ပုဂ္ဂလိကဘွဲ့မည်မဖြစ်နိုင်ချေ ဟု ယူဆရ၏။ ဝိကြမမင်းဆက်သည် ပျူမင်းများဖြစ်သည်၊ သို့မဟုတ် အိန္ဒိယ အနွယ်များ ဖြစ်သည်ကို အတိအကျမသိနိုင်ချေ။ နှောင်းခေတ်မြန်မာမင်းများသည် ပါဠိဘွဲ့မည်များခံယူကြသကဲ့သို့ ပျူမင်းများက အိန္ဒိယဘွဲ့မည် ခံယူခဲ့ကြဟန်ရှိကြောင်း စဉ်းစားရန်ရှိလေသည်။

ဝိကြမမင်းဆက် အပြင် ဝါရ်မန်မင်းတို့ကိုလည်း ကမ္ပည်းစာများ၌ တွေ့ရသေး၏။ ထိုဝါရ်မန်မင်းတို့၏ အမည်များသည် အာဗွ အရှေ့တောင်ဖက် နယ်တလွှား၌ အတော်ပင်ထင်ရှားသည်။ သရေခေတ္တရာမြို့တွင်း ခင်ဘကုန်းမှရရှိသော ငွေဗောဓိမဏ္ဍိုင် ပလ္လင်ပတ်လည်၌ ဆင်းတုတော် ရုပ်ကြွပုံလေးဆူအောက်တွင် ပျူအက္ခရာ ပျူဘာသာဖြင့် စာတမ်းတခု ရေးထိုးလျက်ပါရှိရာ၊ ထိုစာတမ်းတွင် ကုသိုလ်ရှင်ဇြီပြဘုဝါရ်မနှင့် ဇြီပြဘုဒေဝီအမည်များကို တွေ့ရှိရသည်။

သရေခေတ္တရာ မြို့ဟောင်း တနေရာ ဖိုးခေါင်ကန်ကုန်းမှ တွေ့ရှိရသော မဏ္ဍာတော် ကျိုးနေသည့် ကျောက်ဆင်းတုတဆူ၏ စမ္မခဏ်ပတ်လည်တွင် ပျူဘာသာနှင့် သက္ကတဘာသာ ရောစပ်ပြီး ရေးထိုးမှတ်သားလျက် ပါရှိရာ ဖတ်ရှုရနိုင်သမျှ စာကြောင်းများ၏ အဓိပ္ပာယ်ချုပ်မှာ ဇယစန္ဒြဝါရ်မန်နှင့် ဟရိဝိကြမ မင်းသား ညီနောင် နှစ်ပါးတို့သည် တနေ့တည်းတွင် မြို့နှစ်မြို့တည်ကြောင်း၊ ထိုညီနောင်နှစ်ပါးတို့သည် ဂုဟာဒိပ အမည်ရှိသော ရဟန်းကြီး၏ အဆုံးအမသြဝါဒကို ခံယူ၍ တဦးနှင့်တဦး ချစ်ခင်ရင်းနှီးစွာ နေထိုင်ကြကြောင်း ဖြစ်သည်။ သို့သော် ထိုမြို့များ၏ အမည်နှင့် အကျယ်အဝန်းကိုမူ မသိရချေ။

ပျူနိုင်ငံ၏မြို့တော်ဖြစ်သောသရေခေတ္တရာသည်အိန္ဒိယတောင်ပိုင်းယဉ်ကျေးမှု လွှမ်းမိုးမှုကို အများဆုံးခံခဲ့ရသည်။ အထူးသဖြင့် အယူဝါဒဆိုင်ရာ ယဉ်ကျေးမှုတွင် လွှမ်းမိုးမှုအထင်အရှားဆုံးဖြစ်သည်။ ဟိန္ဒူအယူဝါဒ၊မဟာယာနနှင့် ထေရဝါဒ ဗုဒ္ဓအယူဝါဒတို့သည် အပြိုင်အဆိုင် ထွန်းကားခဲ့ကြောင်း အထောက်အထား များစွာတွေ့ရလေသည်။ မြို့တွင်း မြို့ပြင်၌ ဗိသုကာ လက်ရာများဖြစ်သော ဗုဒ္ဓအယူဝါဒဆိုင်ရာ စေတီပုထိုးနှင့် ဂူဘုရားများ တည်ရှိခဲ့ကြသည် နှင့် အမျှ အနုပညာ လက်ရာမြောက်သော ကျောက်ဆစ်ရုပ်ကြွဆင်းတုများနှင့် အုတ်ပုံနှိပ် ရုပ်ကြွဆင်းတုများကိုလည်း အမြောက်အမြား ထုလုပ် ပူဇော်ကြသည်။ ထင်ရှားသောမြေစိုက်အုတ်စေတီများမှာ မြို့ရိုးအပြင်ရှိဘောဘောကြီး၊ဘုရားကြီးနှင့် ဘုရားမာတို့ဖြစ်ကြသည်။ ဂူဘုရားများ အနက်လေးမျက်နှာ၊ ဘဲဘဲနှင့်ဈေးဂူ နှစ်ဆူတို့မှာ စိတ်ဝင်စားဖွယ်ရာ လက်ရာများ ဖြစ်ကြသည်။ သာသနာ အဆောက်အဦပေါင်းများစွာမှာ ကာလကြာမြင့်၍ပြိုပျက်ပြီးနောက် အုတ်ကုန်းများအတိဖြစ်နေရာ ယင်းတို့ကို ရှင်းလင်းတူးဖော်ရှာဖွေရာ၌ သာသနိက ရှေးဟောင်းပစ္စည်းများ ပေါ်ထွက်လေ့ရှိသည်။ ထိုအနက် အုတ်ခွက်ခေါ်သောပုံနှိပ်အုတ်ချပ်ဆင်းတု အမြောက်အမြားကို အနှံ့အပြား တွေ့ရှိရသည်။ ထိုအုတ်ခွက်တို့၏ မျက်နှာဖက်တွင် ဗုဒ္ဓရုပ်ပွားတော်ကိုင်း၊ ဗောဓိသတ်ဘုရားလောင်းပုံကိုင်း ထုလုပ်ထား၍ အချို့တို့တွင် ရှေးဟောင်း နာဂရီ အက္ခရာဖြင့် 'ယေဓမ္မာ ဟေတုပြဘဝါ' အစရှိသော ဂါထာ ရေးထိုးပုံနှိပ်ပါရှိ၏။ အချို့အုတ်ခွက်၏ ကျောဖက်တွင် ပျူဘာသာဖြင့် စာတမ်းတိုတို အနည်းငယ်ပါလေ့ရှိသည်။

သရေခေတ္တရာတွင် ဗုဒ္ဓအယူဝါဒ ထွန်းကားခဲ့ကြောင်း လက်ရေးအထောက်အထားများကိုလည်းတွေ့ရ၏။ ၁၈၉၇ ခုနှစ်က သရေခေတ္တရာမြို့ဟောင်း၏တောင်ဖက် ခုနစ်မိုင်ခန့်အကွာရှိ မောင်ကန် (သို့မဟုတ် လယ်ပေါ်) ရွာမှ ရှေးဟောင်းစာ အရေးအသားပါရှိသော ရွှေချပ်လွှာနှစ်လွှာကို တွေ့ရှိရသည်။ ထိုရွှေချပ်လွှာနှစ်လွှာသည် စာသုံးကြောင်းရေး ပါဠိတော် ရွှေပေစာများဖြစ်ကြ၏။ အက္ခရာအရေးအသားမှာ အိန္ဒိယ တောင်ပိုင်းမှ အက္ခရာများ ဖြစ်၍



သရေခေတ္တရာခေတ် ကောင်းစားစဉ်အခါက ပြုလုပ်ခဲ့ကြသော ရွှေပေချပ်များ

စာသားတို့မှာ ဝိနည်းမဟာဝါပါဠိတော်လာ ယေဓမ္မာ ဟေတုပ္ပဘဝါ အစချီသည့်ဂါထာကိုအစပျိုး၍ ဒီဃနိကာယ်ပါဠိတော်၊ မဇ္ဈိမနိကာယ်ပါဠိတော်၊ အဘိဓမ္မာပိဋကတ်ဝိဘင်းပါဠိတော် စသည်တို့မှ ကောက်နုတ်ချက်တို့ကို ဆက်လက်ရေးသားထားခြင်းဖြစ်၏။ ၁၉၁၀ ပြည့်နှစ်တွင် ဘောဘောကြီးဘုရားခြေရင်း မြေကြီးများရှင်းလင်းရာ၌ တွေ့ရှိရသော သုံးပိုင်းကျိုး ကျောက်ချပ်ငယ် တခုမှာ အဘိဓမ္မာဝိဘင်း

ပါဠိတော်လာ ဗုဒ္ဓပါဝစနများ ဖြစ်ကြောင်း သိရလေသည်။ ၁၉၂၆ ခုနှစ်တွင် ကုလားကန်ကုန်းရွာအနီး မောင်ခင်ဘ ရှာပုံသော တောင်ယာနှင့် ကပ်နေသည့် အုတ်ကုန်းဟောင်းမှ တူးဖော် ရရှိသည့် ရွှေချပ်လွှာ ၂၀ (အဖုံးပါ ၂၂) ချပ်မှာ လည်း ပဋ္ဌိစ္စ သမုပ္ပါဒ ဒေသနာ အစရှိသော ပါဠိပိဋကတ် တော်မှ ကောက်နုတ်ချက် ကိုးခု ပါရှိလေသည်။

ဗြဟ္မာ(ဟိန္ဒူ)အယူဝါဒဆိုင်ရာ ကျောက်ဆစ် လက်ရာ များမှာ များသောအားဖြင့် ဗိဿဏိုးနတ်ရုပ်များ ဖြစ် လေသည်။

သရေခေတ္တရာတွင် ရွှေဆင်းတု၊ ကြေးဆင်းတု၊ ငွေဆင်း တု၊ ငွေစေတီ စသော အယူဝါဒဆိုင်ရာ ဝတ္ထုပစ္စည်းများကို သာမက အနုပညာ လက်ရာ ပြောင်မြောက်သော ဝတ္ထု ပစ္စည်း အမျိုးမျိုးကိုလည်း ပြုလုပ်သည်ကို တွေ့ရှိရ၏။ လေး ထပ်ပြင်ဘုရား အနီးမှရှင်း၊ ဆင်မ ကိုးဝန်တင်ကုန်းနှင့် မှို့ သည်မ ကုန်းတို့မှရှင်း ဖော်ထုတ်ရရှိသည့် ကျောက်ပလ္လင် အပိုင်း အစများမှာ ကြာဖတ် ကြာလွှာများ၊ မှန်ကူကွက် များနှင့် အမွှမ်း အပြောက်တို့ဖြင့် အဆန်းတကြယ် ထုလုပ် ထားလေသည်။ တံကဲများ၊ သပိတ်များ၊ အရိုးအိုးများ၊ ဌာပနာတိုက်ဖုံးသည့် ကျောက်ပြားများနှင့် ခြင်္သေ့ရုပ်များ တွင်လည်း ကျောက်ဆစ် လက်ရာ ထူးချွန်ပုံကို တွေ့မြင်နိုင် သည်။ ရွှံ့စေးကို မီးဖုတ်၍ ပြီးစေသော ရုပ်လုံးရုပ်ကြွများကို လည်း လူရုပ်၊ ဘီလူးရုပ်၊ တိရစ္ဆာန်ရုပ်၊ ကြာပန်းဖော်သော အုတ်တိုင်များအသွင် ဖန်တီး ပြုလုပ်ကြလေသည်။

အယူဝါဒဆိုင်ရာ ယဉ်ကျေးမှုမှအပ ပျူလူမျိုးတို့၏ နေ ထိုင် ဝတ်စားမှု ဓလေ့ထုံးတမ်းများနှင့် စပ်လျဉ်းသည့် ယဉ် ကျေးမှု သာဓကများကိုလည်း အတော်အသင့် ထုတ်ဖော် တွေ့ရှိရ၏။ ကျောက်မျက်ရတနာတို့ဖြင့်ပြီးသော လည်ဆွဲ ပုတီးများ၊ ငွေ ရေသောက် ဖလားများ၊ ငွေ ကွမ်းအစ်များ၊ ငွေနံ့သာဗူးများ၊ ငွေကြာပန်းများ၊ လိပ်ပြာရုပ်၊ ဟင်္သာရုပ်၊ ရွှေလက်စွပ်၊ ငွေလက်စွပ်များ စသည်တို့ကို ထောက်ရှု၍ သရေခေတ္တရာ၏ စည်ပင် ဝပြောမှုနှင့် ယဉ်ကျေးမှု အဆင့် အတန်းမြင့်မားမှုတို့ကို သိသာလေသည်။ ပျူလူမျိုးတို့သည် သေဆုံးသည့်အခါ မီးသင်္ဂြိုဟ်သည့် အလေ့အထ ရှိကြ၏။ မီးကျွမ်းပြီးသော အရိုးစများနှင့် ပြာတို့ကို မြေအိုးများတွင် ထည့်သွင်း၍ ထိုအရိုးအိုးတို့ကို အစုလိုက်အပြုံလိုက် မြှုပ်နှံ လေ့ ရှိသည်။ သာမန် အရပ်သူ အရပ်သားများအတွက် မြေအိုးများကိုအသုံးပြု၍ မင်းစိုးရာဇာတို့အတွက် ကျောက် အိုးများကို အသုံးပြုကြောင်းလည်း သိသာသည်။ ပျူဒင်္ဂါး များဟု ခေါ်ဝေါ်သော အမှတ်လက္ခဏာများ ခတ်နှိပ်ထား သည့် ငွေပြားဝိုင်းများကိုလည်း သရေခေတ္တရာ မြို့ဟောင်း နှင့် ပတ်ဝန်းကျင်တွင် တွေ့ရှိရ၏။ အမှတ် လက္ခဏာများမှာ သီရိဝစ္ဆပုံ၊ နေ၊ လ နှင့် နက္ခတ်များပုံ၊ စကြာပုံ၊ ဝရဇိန်လက် နက်ပုံ၊ သမုဒ္ဒရာပုံ စသည် တို့ ဖြစ်၏။ ယင်းဒင်္ဂါးများမှာ ကျပ်ပြား အရွယ်၊ ငါးမူးငွေစေ့ အရွယ်၊ မတ်စေ့အရွယ်များ ဖြစ်ရာ ငွေကြေးအဖြစ် အသုံးပြုဖွယ်ရာ ရှိသည့် အပြင် အန္တရာယ်ကင်း အဆောင်အယောင်အဖြစ် လည်ဆွဲ ဆင်ယင် ကြောင်း သိသာလေသည်။ (ဒင်္ဂါး — ရှု။)



သရေခေတ္တရာခေတ် လေးမျက်နှာစေတီ

သရေခေတ္တရာတွင် ရှေးဟောင်းသုတေသန ဦးစီးဌာန က တူးဖော် စူးစမ်း လေ့လာမှု လုပ်ငန်းကို ဆက်လက် ဆောင်ရွက်လျက်ရှိသည်။ **ဦးအောင်သော်**

**သရက်ခရိုင်။** ။သရက်ခရိုင်သည် မကွေးတိုင်းတွင် ပါဝင် ၍ အထက် မြန်မာနိုင်ငံ၏ တောင်ဖက် အကျဆုံးခရိုင် ဖြစ် သည်။ ခရိုင်၏ မြောက်ဖက်၌ မင်းဘူးခရိုင်နှင့် မကွေးခရိုင်၊ တောင်ဖက်၌ ပြည်ခရိုင်၊ အရှေ့ဖက်၌ ရမည်းသင်း ခရိုင်နှင့် တောင်ငူ ခရိုင်၊ အနောက်ဖက်၌ သံတွဲခရိုင်တို့ဖြင့် ဝိုင်းရံ လျက် ရှိသည်။

ထို့ပြင် အနောက်ဖက်တွင် ရခိုင်ရိုးမ၊ အရှေ့ဖက်တွင် ပဲခူး ရိုးမတို့သည် သရက်ခရိုင်၏သဘာဝနယ်နိမိတ်အပိုင်းအခြား ကြီးများသဖွယ် တည်ရှိကြသည်။ ရခိုင်ရိုးမနှင့် ပဲခူးရိုးမ တောင်စဉ် တောင်ရိုးတို့မှ အရှေ့ဖက်သို့ရှင်း၊ အနောက်ဖက် သို့ရှင်း တောင်စွယ် တောင်နှာခေါင်းတို့ ဖြာထွက်ကြရာ ယင်းတို့သည် ဧရာဝတီ မြစ်မကြီး၏ မြစ်လက်တက်များ အတွက် ရေဝေကုန်းတန်းများ ဖြစ်ကြလေသည်။

ဧရာဝတီမြစ်သည် ခရိုင်၏ အလယ်ကို မိုင် ၉၀ ခန့် ဖြတ် လျက် မြောက်မှ တောင်သို့ စီးဆင်းသွားသည်။ မြစ်၏ အ ကျယ်သည် ကမ္မမြို့နှင့် ပြည်မြို့အကြား စတုတ္ထမြစ်ကျဉ်းနေ ရာ၌သုံးဖာလုံခန့်သာရှိ၍ ဆင်ပေါင်ဝဲမြို့နှင့်မျက်နှာချင်းဆိုင် နေရာတွင် သုံးမိုင်ခန့် ကျယ်ဝန်းသည်။ သရက်ခရိုင်အတွင်း ဧရာဝတီ မြစ်ထဲသို့ စီးဝင်သော အရေးပါသည့် မြစ်ချောင်း တို့အနက် ပနိ၊ မင်းတုန်း(မထုန်း)နှင့်မတဲချောင်းတို့သည်

အနောက်ဖက်မှ စီးဝင်သည်။ အရှေ့ဖက်မှ စီးဝင်သော ချောင်းများအနက် ကြေးနီနှင့် ဗွက်ကြီးတို့သည် အရေးပါသော ချောင်းများ ဖြစ်ကြသည်။

သရက်ခရိုင် အတွင်း၌ ရခိုင်ရိုးမ၏ အမြင့်သည် ပျမ်းမျှခြင်းအားဖြင့် ပေ ၄,၀၀၀ ခန့်သာ ရှိ၍ နှစ်နေရာတွင်သာ ပေ ၅,၀၀၀ ကျော် မြင့်သည်။ ပဲခူးရိုးမသည် ပို၍နိမ့်ရာ တနေရာ၌သာ ပေ ၂,၀၀၀ ကျော်ပြီးလျှင် မြောက်ဖက်သို့ တဖြည်းဖြည်း နိမ့်ဆင်းသွားလေသည်။

ခရိုင်၏ မြေမျက်နှာပြင်သည် တောင်ကုန်း တောင်ပူစာများပြား၍ မြေပြန့်လွင်ပြင် နည်းပါးသည်။သဲကျောက်၊ထုံးကျောက်မြေမျိုး များပြား၍ နေရာများစွာတို့မှာ တောင်ယာ ပဲခင်းစိုက်ပျိုး၍ မရနိုင်လောက်အောင် မြေသြဇာ ညံ့ဖျင်းလေသည်။

မြန်မာနိုင်ငံ အောက်ပိုင်း မြစ်ဝကျွန်းပေါ် ဒေသနှင့် နီးစပ်သော်လည်း သရက် ခရိုင်သည် မိုးပါးရေရှား ရပ်ဝန်းတွင် ပါဝင်၍ တနှစ်လုံးတွင် မိုးရေချိန် ပျမ်းမျှခြင်း လက်မ ၃၀ မှ ၅၀ အထိသာ ရရှိလေသည်။ မကွေးတိုင်းရှိ အခြားခရိုင်များထက် ပို၍ ရာသီဥတု အပြောင်းအလဲ များသည်။ ဆောင်းဥတု အခါ၌ ဖာရင်ဟိုက် ၄၂ ဒီဂရီအထိ ကျဆင်းတတ်သော်လည်း နွေရာသီတွင် ဖာရင်ဟိုက် ၁၀၄ ဒီဂရီအထိ အပူချိန် တက်သည်။ ဧပြီလ အခါလောက်တွင် မျက်စိတဆုံး မျှော်ကြည့်လိုက်လျှင် မြက်ပင်စိမ်းစိမ်းကိုမျှတွေ့ရခဲလောက်အောင် ခြောက်သွေ့နေသော်လည်း မေလဆန်း၍မိုးတပိုက်နှစ်ပိုက် ရွာမိလျှင် တောင်ကုန်း မြေပြန့်မကျန်၊ နွေခြင်းညခြင်း စိမ်းစို လန်းဆန်းနေသည်ကို တွေ့မြင်နိုင်လေသည်။

သရက် ခရိုင်၏ အစောပိုင်း သမိုင်းကို ပြန်လည်ဆန်းစစ်ကြည့်လျှင် ထိုခရိုင်၏ အောက်ပိုင်းသည် သရေခေတ္တရာပြည်ကြီး စည်ပင် ထွန်းကားစဉ်က ထိုနိုင်ငံ၏နယ်နိမိတ်အတွင်း၌ ပါဝင်ခဲ့သည်။ ဧရာဝတီမြစ်၏ အနောက်ဖက်ကမ်းရှိ ယခုခရိုင်၏ အထက်ပိုင်းသည် သုနာပရန္တတိုင်း၌ရင်း၊ အရှေ့ဖက်ကမ်း၌ရှိသော ခရိုင်၏ တစိတ်တဒေသသည် တမ္ဗဒီပတိုင်း၌ရင်း ပါဝင်ခဲ့သည်ဟု အချို့သမိုင်း သုတေသီတို့က ဆိုလေသည်။

သရေခေတ္တရာ မင်းဆက် ၂၇ ဆက်မြောက် ဖြစ်သော သုပညာမင်းလက်ထက် ခရစ်နှစ် ရှစ်ရာစုခန့်တွင် သရေခေတ္တရာကို မွန်လူမျိုး၊ ကမ်းယံ လူမျိုးတို့ လာရောက် တိုက်ခိုက်သဖြင့် ထိုပြည်ကြီး ပျက်လေသော် ထိုမင်း၏ တူတော်တပါးဖြစ်သည့် သမုတိရာဇ်သည် သရက်ခရိုင် အတွင်းသို့ ရှောင်တိမ်းလာရင်း မင်းတုန်းမြို့ကို တည်သည်ဟု ဆိုကြသည်။ ထိုမင်းသည် နောင်အခါ အရိမဒ္ဒနာ ဟု ခေါ် တွင်သော ပုဂံပြည်ကြီးကို စတင် တည်ထောင်ခဲ့သော မင်း ဖြစ်သည်။ ထိုမင်း၏ အဆက်အနွယ်တို့သည် နှစ်ပေါင်း ၁,၀၀၀ကျော်မျှ ပုဂံတွင် အုပ်ချုပ် မင်းလုပ်ခဲ့ကြရာ သရက်ခရိုင်ဒေသသည် ပုဂံမင်းတို့၏ နယ်ပယ်အတွင်း ပါဝင်ခဲ့၍ သရက်မြို့စားများကို ပုဂံမင်းတို့က ခန့်အပ်ခဲ့လေသည်။

ပုဂံမင်းဆက် နောက်ဆုံးမင်းဖြစ်သော ကျော်စွာမင်းလက်ထက်တွင် သားတော်တပါးဖြစ်သူ မင်းရှင်စောကို သရက်မြို့စားအဖြစ် ခန့်ထားခဲ့၍ ထိုခေတ်ထိုအခါက သရက်ခရိုင်ဒေသသည် အတော်အတန် ဖွံ့ဖြိုးစည်ပင်ခဲ့ဟန် တူပေသည်။ ပုဂံပျက်ပြီးနောက်တွင် တနယ်တစင်ထောင်၍မင်းမူကြလေရာ သရက်ခရိုင်ဒေသသည်လည်း အစိတ်စိတ်ကွဲပြား၍ နီးစပ်ရာ စိုးမိုးသူတို့က မိမိတို့နယ်ပယ်အတွင်း သွတ်သွင်းခဲ့ကြသည်။ ပုဂံပြည်ကြီး ပျက်ပြီးနောက်ပိုင်းတွင် သရက်ခရိုင်၏ အမည်သည်လည်း တိမ်မြုပ်သွား၍ သရက်ခရိုင်၏ မြို့တမြို့ ဖြစ်သော မြေထဲမြို့၏ အမည်သာလျှင် ခံတပ်မြို့တမြို့အဖြစ် သမိုင်းမှတ်တမ်းများ၌ ရံဖန်ရံခါ ပါရှိလာသည်။ မြေထဲမြို့ရှိ ခံတပ်ကို သမုတိရာဇ်မင်းလက်ထက်ကပင် စတင်တည်ဆောက်ခဲ့၍ နောင်နှစ်ပေါင်း ၁,၃၀၀ ကျော်တွင် မင်းရဲကျော်စွာက ထပ်မံ ပြုပြင်မွမ်းမံဆောက်လုပ်ခဲ့သည်ဟု ဆိုကြသည်။

ပဌမ အင်္ဂလိပ်-မြန်မာ စစ်အတွင်း ၁၈၂၅ ခုနှစ်၌ အင်္ဂလိပ်တို့က ပြည်မြို့ကို ရေကြောင်း ကြည်းကြောင်း နှစ်ဖက်ညှပ်၍ တိုက်ခိုက် သိမ်းပိုက်ပြီးသည့်နောက်တွင် သရက်ခရိုင်၊ ဧရာဝတီမြစ် အရှေ့ဖက်ကမ်းရှိ ညောင်ပင်ဆိပ် စခန်း၌ မြန်မာ-အင်္ဂလိပ် နှစ်ဖက်ကိုယ်စားလှယ်တို့ စစ်ပြေငြိမ်းရန် စကား ဆိုကြသည်။ အင်္ဂလိပ်တို့က မြိတ်၊ ထားဝယ်၊ ရခိုင်မြို့များနှင့် စစ်စရိတ်ငွေတော် နှစ်ကုဋေ တောင်းဆိုသဖြင့် အရေး မပြီးပေ။

၁၈၅၂ ခုနှစ် ဒုတိယ အင်္ဂလိပ်-မြန်မာ စစ်ပွဲအတွင်း ပြည်မြို့အနီး ရသေ့မြို့၌ တိုက်ပွဲဖြစ်ပွားပြီးနောက် သရက် ခရိုင်တောင်ပိုင်းကို အင်္ဂလိပ်တို့က သိမ်းပိုက်ကြသည်။ နယ်နိမိတ်အပိုင်းအခြားကို မြေထဲမြို့ အလံတိုင်၏ မြောက်ဖက်ခြောက်မိုင်အထိသတ်မှတ်သည်။ထိုနယ်မြေအစိတ်အပိုင်းကို အင်္ဂလိပ်အစိုးရက ပြည်ခရိုင် နယ်ခွဲတခု အဖြစ် သတ်မှတ်ပြီးလျှင် ၁၈၇၀ ပြည့်နှစ်တွင် ခရိုင်အဆင့်အတန်းသို့ တိုးမြှင့်လိုက်သည်။ ၁၈၅၄ ခုနှစ်တွင် တပ်မြို့တခုကို သရက်မြို့၌ တည်ဆောက်၍ သရက်မြို့နှင့် မြေထဲမြို့တို့၌ ဗြိတိသျှ တပ်များထားရှိခဲ့ရာ အထက်မြန်မာနိုင်ငံကို သိမ်းပိုက်ပြီးသည်အထိ ဖြစ်ပေသည်။

သရက်မြို့သည် မြန်မာနှင့် အင်္ဂလိပ် နယ်ခြားမြို့လည်းဖြစ်နေ၍ သီပေါမင်း ပါတော်မူသော တတိယ အင်္ဂလိပ်-မြန်မာ စစ်ပွဲတွင် အထက် မြန်မာနိုင်ငံကို တိုက်ခိုက် သိမ်းပိုက်ရာ၌ အင်္ဂလိပ်တို့သည် အခြေခံစစ်စခန်းကို သရက်မြို့၌ ထားရှိခဲ့လေသည်။ထိုအချိန်အထိ သရက်ခရိုင်မြောက်ပိုင်းရှိ မင်းလှ

မြို့သည် မြန်မာ့ပိုင်နက် အတွင်း၌ ရှိနေသေးသည်။ အထက် မြန်မာနိုင်ငံကို တိုက်ခိုက် သိမ်းပိုက်ရန် ၁၈၈၅ ခုနှစ်တွင် အင်္ဂလိပ်တပ်များ ချီတက်လာသောအခါ မင်းလှမြို့ရှိ ခံတပ် မှနေ၍ မြန်မာတို့က ပိတ်ဆို့ခုခံသည်။ သို့သော် မြန်မာတပ် များသည် အားမတန်သဖြင့် အညှာခံကြရပြီးလျှင် မြစ်တ ဖက်ကမ်းရှိ ဂွေးချောင်းစခန်းကို အင်္ဂလိပ်တို့က ဒိုင်းနမိုက် ဖြင့် ဖောက်ခွဲဖျက်ဆီးပစ်လေသည်။

မြန်မာမင်း ပါတော်မူ၍ အင်္ဂလိပ် အစိုးရတက်စ စပ်ကူး မတ်ကူး ကာလတွင် အခြေအနေ မငြိမ်မသက် ဆူပူ လှုပ်ရှား နေခဲ့သော ဒေသများတွင် သရက်ခရိုင်လည်း အပါအဝင် ဖြစ်သည်။ နှစ် အတန်ငယ် ကြာမှသာလျှင် ခရိုင်အတွင်း၌ အေးချမ်း ငြိမ်သက်လာခဲ့လေသည်။

ဒုတိယ ကမ္ဘာစစ် ခေတ်အတွင်းက ၁၉၄၅ ခုနှစ် မတ်လ တော်လှန်ရေးတွင် ဗိုလ်ချုပ်အောင်ဆန်းသည် သရက်ခရိုင် အတွင်းမှ နေ၍ မြန်မာတနိုင်ငံလုံး၏ ဂျပန်တော်လှန်ရေးကို ကြီးကိုင် လှုပ်ရှားစေခဲ့သည်။ သရက်ခရိုင်အတွင်း၌ ဂျပန် တို့နှင့် တိုက်ပွဲပေါင်း ၁၀၀ ကျော်မျှ ဖြစ်ပွားခဲ့လေသည်။

အင်္ဂလိပ် အစိုးရ လက်ထက်က အစပြု၍ သရက်ခရိုင်ကို ခရိုင်ခွဲနှစ်ခု ခွဲခြားအုပ်ချုပ်ခဲ့ရာ သရက်ခရိုင်ခွဲနှင့် အောင်လံ ခရိုင်ခွဲတို့ ဖြစ်ကြသည်။ ယင်းတို့သည် ဧရာဝတီမြစ် အ နောက်ဖက်ကမ်းနှင့် အရှေ့ဖက်ကမ်းပေါ် တွင် အသီးအသီး တည်ရှိကြသည်။သရက် ခရိုင်ခွဲတွင် ကမ္မမြို့နယ်၊မင်းတုန်းမြို့ နယ်၊မင်းလှမြို့နယ်နှင့်သရက်မြို့နယ်တို့ပါဝင်သည်။အောင်လံ ခရိုင်ခွဲတွင် အောင်လံမြို့နယ်နှင့် ဆင်ပေါင်ဝဲမြို့နယ်တို့ ပါဝင် သည်။ ခရိုင်တွင်း၌ပါဝင်သော ကျေးရွာပေါင်းမှာ ၄၉၉ ရွာ ဖြစ်သည်။ ခရိုင်အတွင်း၌ မျူနီစီပယ်အဖွဲ့ရှိသော မြို့နှစ်မြို့ ရှိသည်။ သရက်မျူနီစီပယ် အဖွဲ့ကို ၁၈၈၇ ခုနှစ်၌ တည် ထောင်၍ အောင်လံ မျူနီစီပယ်အဖွဲ့ကို ၁၉၀၀ ပြည့်နှစ်၌ တည်ထောင်ခဲ့သည်။သရက်ခရိုင်သည် မကွေးတိုင်းအတွင်း၌ တည်ရှိသော်လည်း တရားစီရင်ဆိုင်ဖြတ်ရေး၌ ပြည်မြို့ စက် ရှင် တရားသူကြီး၏ လက်အောက်ခံ ဖြစ်သည်။ အကြောင်း မူ သရက်ခရိုင်အတွင်း၌ တရား စီရင်ရေးနှင့် အုပ်ချုပ်ရေး ဖက်၌ အောက်မြန်မာနိုင်ငံဥပဒေကို ကျင့်သုံး ဆောင်ရွက် သောကြောင့် ဖြစ်ပေသည်။

သရက်ခရိုင်၏ လူဦးရေသည် ၁၉၃၁ ခုနှစ် ခန့်မှန်းခြေ စာရင်းအရ ၄၇၀,၀၀၀ ယောက် ဖြစ်၍ တိုင်းရင်းသားတို့ အနက် မြန်မာ အများဆုံး ဖြစ်ပြီးလျှင် ချင်းအမျိုးသား အနည်းငယ် ရှိသည်။ နိုင်ငံခြားသား တရုပ်နှင့် အိန္ဒိယအမျိုး သားများလည်း အနည်းအကျဉ်း ရှိသည်။ ခရိုင်အတွင်းရှိ လူဦးရေ ၈၀ ရာခိုင်နှုန်းသည် စိုက်ပျိုးရေး လုပ်ကိုင်ကြ လေသည်။

သရက်ခရိုင်တွင် မြေဩဇာ ကောင်းသော အရပ်ဒေသ နည်းပါးသည်။ ခရိုင်၏ အကျယ်အဝန်း ၄,၈၂၉ စတုရန်းမိုင် ရှိသည့်အနက် စိုက်ပျိုးလုပ်ကိုင်သော ဧရိယာမှာ ၁၉၀၇-၀၈ ခုနှစ်တွင် ၂၄၅ စတုရန်းမိုင်မျှသာ ရှိ၍ ၁၉၅၆-၅၇ ခုနှစ်တွင် ၃၂၉ စတုရန်းမိုင် ရှိသည်။ဆန်စပါးကို ခရိုင်တွင်းသုံးအတွက် သာ စိုက်ပျိုးကြ၍ ရောင်းဝယ်ဖောက်ကားရေး အတွက် စိုက်ပျိုး လုပ်ကိုင်ကြသော ကောက်ပဲသီးနှံ များတွင် ဝါဂွမ်း နှင့်နှမ်းသည် အဓိက ဖြစ်သည်။ ထိုနောက် ပြောင်း၊ မြေပဲ၊ ဆေး၊ ပဲကြီး၊ ကြက်သွန်နှင့် ငရုတ် စသော ကုန်ခြောက်သီး နှံများကို စိုက်ပျိုး လုပ်ကိုင်ကြသည်။

သရက်ခရိုင်မှ ထွက်သော ဝါဂွမ်းသည် အရှေ့တောင် အာရှနိုင်ငံများထွက် ဝါဂွမ်းများနည်းတူ ကောင်းမွန်၍ ကျော်ကြားသည်။ရှေးက တရုပ် ကုန်သည်ကြီးများ အနုတ် အသိမ်း များသည်။ ထွက်ရှိသော ဝါဂွမ်းများအနက် အချို့ ကို ကျေးရွာအချို့တွင် ခြည်ငင်၍ အထည် ရက်လုပ်သည်မှ လွဲလျှင် ရွာဆောင်ရှိ ခြည်မျှင်စက်သို့ပို့၍ ခြည်မျှင်ထုတ် လုပ်သည်။ ခြည်မျှင်ထုတ်လုပ်ပြီးနောက်တွင် ဝါစေ့မှ ဆီ ထုတ်ယူ၍ ရန်ကုန်သို့ တင်ပို့သည်။ ထိုဝါစေ့ဆီဖြင့် အဝတ် လျှော်ဆပ်ပြာကြမ်းများကို ပြုလုပ်ရလေသည်။

မြေပဲကို ၁၉၀၅–၀၆ ခုနှစ်များတွင် စတင် စမ်းသပ် စိုက် ပျိုးခဲ့ရာ အောင်မြင်သဖြင့် တိုးချဲ့ စိုက်ပျိုးခဲ့သည်။ ပဲကြီး၊ ငရုတ်၊ ကြက်သွန်တို့ကို ဧရာဝတီမြစ်အတွင်း မြေနု ကျွန်း ပေါ် ကိုင်းခင်းများ၌၎င်း၊ ချောင်းရိုး ကမ်းဘေး ကိုင်းခင်း များ၌၎င်း စိုက်ပျိုးလုပ်ကိုင်ကြသည်။

ခရိုင်၏ မြောက်ဖက်ပိုင်းသည် ခြောက်သွေ့သဖြင့် အင် တိုင်းတောများ ပေါက်ရောက်သည်။ တောင်ဖက်သို့ ဆင်း လာလျှင် ရိုးမတောင်များနှင့် နီးကပ်လာသော ဒေသ များတွင် သစ်တောများ ထူထပ်လာသည်။ အရှေ့ဖက်ရှိ ပဲခူးရိုးမတောင်၏ တောင်စောင်းများတွင် ကျွန်းတော များရှိသည်။ သို့သော် သစ်မျှောချောင်း ကောင်းကောင်း မရှိသဖြင့် အဖိုးတန် ကျွန်းသစ်များ တန်ဖိုးလျော့ရသည်။ အနောက်ဖက်ရှိ ရခိုင်ရိုးမသည် မြင့်မားသဖြင့် သစ်ပျော့ မျိုးများ ထွက်ရှိသော အမြဲစိမ်းတောနှင့် ဝါးတောများ ပေါက်ရောက်၍ မြောက်ဖက်ပိုင်းတွင် ညောင်ကြက်ပေါင် ပင်များ ပေါက်ရောက်သည်။ ခရိုင်၏ မြေမျက်နှာပြင်သည် များသောအားဖြင့် မြေနိမ့်ဖြစ်၍ လယ်ယာစိုက်ပျိုးရေးကို တောင်ယာစနစ်ဖြင့် နေရာရွှေ့ပြောင်း စိုက်ပျိုးခြင်းကို ပြု လုပ်ခဲ့ကြသောကြောင့် သစ်ပင်ကြီးများ ပြုန်းတီး၍ သစ် တောများ ဆုတ်ယုတ်ခဲ့ရပြီးလျှင် အပေါက်မြန်သော သစ် ပျော့မျိုးနှင့် မြင်ဝါးများကို တွေ့ရှိရလေသည်။

သရက်ခရိုင် သစ်တောများမှ ကျွန်းသစ် အပြင် ပျဉ်း ကတိုး၊ အင်၊ ပိတောက် စသော သစ်မာများ အတော်အ သင့်ထွက်၍ ရှားစေးလည်း ထိုသစ်တောများမှ ရရှိသည်။

ယခင်က တခရိုင်လုံး၏ သစ်တော ဧရိယာသည် ၃,၃၄၁ စတုရန်းမိုင်ဖြစ်ခဲ့သော်လည်း ကြိုးဝိုင်းသစ်တော ဧရိယာ ၆၄၁ စတုရန်းမိုင်နှင့် အပ သစ်တော ဧရိယာ စတုရန်းမိုင် ၂,၇၀၀ ဖြစ်သည်။ ကျွန်းတော ဧရိယာသည် ၄၄၅ စတုရန်းမိုင် ရှိသည်။ တောင်ယာ လုပ်ငန်းကြောင့်၎င်း၊ စည်းကမ်းမဲ့ ခုတ်ခဲ့ကြ၍၎င်း ယခုအခါ ခရိုင်၏ သစ်တောဧရိယာ များစွာ ဆုတ်ယုတ်ခဲ့လေသည်။

သရက်မြို့မှ အနောက်ဖက် ကိုးမိုင်ကွာရှိ ပိတောက်နှင့်မင်းလှမြို့ အနောက်တောင်ဖက် ၂၅ မိုင်ကွာရှိ ရေနံရွာတို့တွင် ရေနံတွေ့ရှိရသည်။ သို့သော် တွင်းနက်ကြီးများ တူး၍ များများစားစား တူးဖော်လုပ်ကိုင်ခြင်း မရှိချေ။ မိုးနတ်ကုန်းနှင့် ပြရည်ရွာတို့တွင်မူ ပေ ၇,၀၀၀ ကျော် နက်သော တွင်းကြီးများ တူး၍ စမ်းသပ်လျက်ရှိပေသည်။

မင်းတုန်းမြို့နယ် ရိုးမ သစ်တောကြိုးဝိုင်း၏မြောက်ဖက် အချို့ဒေသများတွင် ကရိုမိုက်ခေါ် သတ္တုတမျိုးကို တွေ့ရှိရသည်။ သို့သော် ရောင်းဝယ်ဖောက်ကားလောက်အောင် ထွက်ရှိဟန် မတူချေ။

ခရိုင်အတွင်း အချို့ဒေသများတွင် ဆားတွင်းများကို တွေ့ရသည်။ ထိုပြင် ပန်ချောင်းဝမှ မြောက်ဖက် မိုင်အနည်းငယ် အထက်ကျသော နတ်မီးနှင့် နတ်မီးတောက် အမည်ရှိရွာ နှစ်ရွာတွင် ရေနံဓာတ်ငွေ့များ ထွက်သည်။ ယင်းဓာတ်ငွေ့များ ထွက်နေသည်ကို အကြောင်းပြု၍ ထိုရွာများ၏အမည် တွင်ခဲ့ဟန် တူပေသည်။ ရှမ်းတပ်ကြီး သစ်တောကြိုးဝိုင်း၏ အရှေ့နယ်နိမိတ်ဖြစ်သော ကုန်းတန်းတခုတွင် ရွှံ့မီးတောင်တခု ရှိလေသည်။

သရက်မြို့၏ အောက်ဖက် ယုန်တောင်ဟု ခေါ်သော ထုံးကျောက်တောင် ကုန်းတန်းတွင် ကျောက်မီးသွေးကို တွေ့ရသည်။ တွေ့ရသော ၁၈၅၅ ခုနှစ်က မီးသင်္ဘောများတွင် အသုံးပြုနိုင်မည်ဟု ထင်မြင်ခဲ့ကြသော်လည်း ထိုမျှလောက် အမျိုးအစားမကောင်းသည်ကို နောင်အခါ တွေ့ရှိလာကြရသည်။ ၁၈၉၉ ခုနှစ်တွင် မင်းတုန်းမြို့နယ်အတွင်း၌လည်း ကျောက်မီးသွေး အညှာစားကို တွေ့ကြရသည်။ ၁၉၁၀ ပြည့်နှစ်တွင် ထိုမြို့နယ်အတွင်း ကျောက်မီးသွေး ရှာဖွေ တူးဖော်ရေးများ ဆောင်ရွက်ခဲ့ကြသေးသည်။

သရက်ခရိုင်၏ အရှေ့ဖက်ကမ်း သဲဆန်သော မြေများတွင် သံရိုင်းများ တွေ့ရသည်။ မြန်မာမင်းများ လက်ထက်အခါက ထိုသံရိုင်းများကို အများအပြား တူးဖော် အသုံးပြုခဲ့ကြောင်းကို ရွှေပန်းတော၊ ကျွန်းကလေး၊ ရေပေါ်နှင့် ကျောက်ဆောင်စမ်း စသော ရွာများ၌ သံရည်ကျိုဖိုကြီးများနှင့် ချော်ခဲများကို တွေ့ရှိရခြင်းဖြင့် သိရှိရပေသည်။ သို့သော် နောက်ပိုင်းတွင် ထိုသံရည်ကျို လုပ်ငန်းကို လုပ်ကိုင်ခြင်း မပြုကြတော့ချေ။

သရက်ခရိုင်၏ ကျော်ကြားသော လက်မှုလုပ်ငန်းတရပ်မှာ ငွေထည်လုပ်ငန်းဖြစ်သည်။ သရက်ခရိုင်မှ ငွေပန်းထိမ်များသည် ကြွရွသော ရုပ်လုံးများပေါ်၌ လက်ရာ ပြောင်မြောက်သဖြင့် ကျော်ကြားကြပေသည်။ ထိုပြင် ကုလားထိုင် စားပွဲများ၊ လမ်းလျှောက် လက်ကိုင်တုတ်များ၊ ကက်ဖဲများ၊ နီးချောဖျာများ လုပ်ကိုင်ခြင်းသည်လည်း သရက်ခရိုင်၏ အိမ်တွင်းမှုလုပ်ငန်းများဖြစ်ပေသည်။

မြန်မာနိုင်ငံ၏ ဗိလတ်မြေစက်ကြီးများသည် သရက်မြို့တွင် ရှိလေသည်။

လမ်းပန်း ဆက်သွယ်ရေးတွင် ဧရာဝတီမြစ်သည် သရက်ခရိုင်ကို ဖြတ်သန်းသွားသဖြင့် ရေလမ်းခရီးကို အဓိကထား၍ အသုံးပြုကြသည်။ ခရိုင်အတွင်းရှိ မြို့များဖြစ်ကြသော သရက်၊ အောင်လံ၊ မင်းလှ၊ ဆင်ပေါင်ဝဲ၊ ကမ္မ မြို့တို့သည်လည်း ဧရာဝတီ မြစ်ကမ်းမြို့များ ဖြစ်ကြသည်။ ပြည်တွင်းရေကြောင်း သယ်ယူပို့ဆောင်ရေး သင်္ဘောများအားဖြင့် သရက်ခရိုင်သည် အထက်အောက် မြန်မာနိုင်ငံ နှစ်ရပ်နှင့် ဆက်သွယ်နိုင်သည်။ မိုးရာသီ အခါ မင်းတုန်း (မထုန်း) ချောင်းအားဖြင့် မင်းတုန်းမြို့နှင့် ကမ္မမြို့တို့ကို ဆက်သွယ်နိုင်သေးသည်။ ခရိုင်အတွင်း၌ မီးရထားလမ်း မရှိချေ။

ကုန်းလမ်းအားဖြင့် အောင်လံနှင့် ပြည် ၄၄ မိုင် ကို ဆက်သွယ်ထားသော ကျောက်ခင်းလမ်းရှိ၍ ထိုလမ်းသည် များသောအားဖြင့် ဧရာဝတီမြစ်ကြောင်းနှင့် ယှဉ်ပြိုင်လျက်ရှိသည်။ အောင်လံသို့ ရောက်ပြီးနောက်တွင် ထိုလမ်းကြောင်းသည် ဧရာဝတီမြစ်ကြောင်းမှ ဖဲကြဉ်ကာ အတွင်းဖက်သို့လှည့်၍ တောင်တွင်းကြီးမြို့အထိ ၅၇ မိုင် ရောက်ရှိသွားလေသည်။

ခရိုင်အတွင်းရှိ အခြား ကျောက်ခင်းလမ်းများမှာ ၁။ သရက်မြို့မှ မင်းတုန်းမြို့ (၂၁ မိုင်) သို့၎င်း၊ ၂။ သရက်မြို့မှ ထုံးတောင် (နှစ်မိုင်) သို့၎င်း၊ ၃။ ရွာထောင်မှသမ္ဘုလ (၂၄ မိုင်) သို့၎င်း၊ ၄။ ညောင်ပင်ဆိပ်မှ ဒရင်ဒဗို (နှစ်မိုင်) သို့၎င်း၊ ၅။ ကျောက်ပန်းတောင်းမှ ရွှေပန်းတော (၁၂ မိုင်) သို့၎င်း ဆက်သွယ်ထားသော လမ်းများဖြစ်ကြလေသည်။

သရက် ခရိုင်အတွင်း ထင်ရှားသော စေတီများမှာ သရက်မြို့ပေါ်ရှိ ရွှေသက်လွတ် စေတီ၊ ထိုမြို့မှ မိုင်အနည်းငယ် မြောက်ဖက်ကျသော အရပ်ရှိ ရွှေအင်တော် စေတီနှင့် ကမ္မမြို့နယ်အတွင်းရှိ ရွှေမြင်တင်၊ သို့မဟုတ် ရွှေဆုတောင်းပြည့် စေတီတော်တို့ ဖြစ်လေသည်။

**သရက်ချောင်းမြို့။** ။ထိုမြို့သည် မြန်မာနိုင်ငံ အောက်ပိုင်း တနင်္သာရီတိုင်း ထားဝယ်ခရိုင်တွင် ပါဝင်သော သရက်ချောင်းမြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ ထားဝယ်-မြိတ် မော်တော်ကားလမ်းပေါ်တွင် တည်ရှိ၍ ထားဝယ်မြို့မှ ၁၇

မိုင် ကွာဝေးသည်။ ထားဝယ်မြို့ထက် ပင်လယ်ကမ်းရိုးတန်း နှင့် ၁၅ မိုင်ခန့် ပိုမို နီးကပ်ပြီးလျှင် ထားဝယ်မြစ်၏ အရှေ့ ဖက်ကမ်းအနီးတွင် တည်ရှိလေသည်။

သရက်ချောင်း မြို့ပေါ်တွင် အိမ်ခြေ ၂၆၄ အိမ်မျှရှိ၍ လူဦးရေ ၁,၀၀၀ ခန့်ရှိလေသည်။ မြို့ပေါ်ရှိ အစိုးရအဆောက် အအုံများအနက် မြို့ပိုင်ရုံးနှင့် ရဲဌာနတို့မှာ သောင်းကျန်း သူများ မီးရှို့ဖျက်ဆီး၍ ပျက်စီးခဲ့ရသဖြင့် ၁၉၆၁–၆၂ ခုနှစ် က အသစ်တဖန် ပြန်၍ ဆောက်လုပ်ခဲ့ရသည်။ ငွေတိုက် တခုသာလျှင် ဒုတိယ ကမ္ဘာစစ်ကြီး မတိုင်မီက အဆောက် အအုံဖြစ်လေသည်။

သရက်ချောင်း မြို့နယ်သည် ထားဝယ် ခရိုင်အတွင်းရှိ မြို့နယ် လေးခုအနက် တခု အပါအဝင် ဖြစ်ပြီးလျှင် ပင်လယ် ကမ်းရိုးတန်းနှင့် နီးသော ဒေသများမှတပါး သရက်ချောင်း မြို့နယ်သည် ညီညာပြန့်ပြူးသော မြေနိမ့် မြေပြန့် နည်းပါး ၍ တောင်ကုန်း ကမူ ပေါများသည်။ မြို့နယ်၏ အရှေ့ဖက် တွင် တနင်္သာရီရိုးမ တောင်တန်းကြီးရှိ၍ အနောက်ဖက် တွင် ထားဝယ်မြစ်ရှိလေသည်။ ယင်း၏ တောင်နှင့်မြောက် အလျားသည် ထားဝယ်မြို့နယ်၏ တောင်ဖက် အကျဆုံး ဖြစ်သော ရှင်မုတ္တီးရွာရှိ ရွှေဂူချောင်းမှသည် မြိတ်ခရိုင် မြောက်ဖက် အစပ်တွင် ရှိသော ပလောက်ချောင်းအထိ ဖြစ်၍ မိုင် ၆၀ ခန့် ရှည်လျားသည်။ မြို့နယ်၏ အရှေ့ အ နောက် အကျယ်ဆုံးနေရာတွင် မိုင် ၃၀ ခန့်ရှိသည်။ မြို့နယ် တခုလုံး၏ ဧရိယာသည် ၁,၀၁၃ စတုရန်းမိုင်ဖြစ်၍ ကျေးရွာ ပေါင်း ၁၄၉ ရွာပါဝင်ရာ သူကြီး ၄၅ ဦးက ကျေးရွာအစု များဖွဲ့၍ ခွဲဝေအုပ်ချုပ်ရလေသည်။

သရက်ချောင်း မြို့နယ် တခုလုံး၏ လူဦးရေသည် ၁၉၇၁ ခုနှစ် ခန့်မှန်းခြေအရ ၇၄,၀၀၀ ဖြစ်သည်။ မြို့ပေါ်နှင့် မြို့နယ်အတွင်း နေထိုင်ကြသူတို့သည် မြန်မာအနွယ် ထား ဝယ် လူမျိုးများ များပြား၍ ကရင်လူမျိုး အချို့နှင့် မွန် လူမျိုး အနည်းငယ်မျှ ရှိသည်။ ခန့်မှန်းခြေ အားဖြင့် ထား ဝယ်၊ ကရင်၊ မွန်၊ နိုင်ငံခြားသားတို့၏ ရာခိုင်နှုန်း အချိုး အစားမှာ ၉၀း၇း၂း၁ ခန့်ဖြစ်လေသည်။ လူဦးရေ အများ စုသည် ဗုဒ္ဓဝါဒီများ ဖြစ်ကြ၍ ခရစ်ယာန် အယူဝါဒီများ လည်း အနည်းအကျဉ်းမျှ ရှိလေသည်။

ကိုင်း၊ လယ်ယာနှင့် ခြံဥယျာဉ် လုပ်ငန်းသည် မြို့နယ် ၏ အဓိကလုပ်ငန်းဖြစ်သည်။ လုပ်ကိုင်လျက်ရှိသော ကိုင်း နှင့် လယ်ဧရိယာပေါင်းမှာ ၃၁,၄၆၂ ဧကဖြစ်၍ အုန်းသီး၊ ကွမ်းသီး၊ ဒူးရင်း၊ မင်းကွတ်တို့ကို စိုက်ပျိုးသော ခြံဥယျာဉ် ဧကပေါင်းမှာ ၂၄,၀၅၁ ဧကဖြစ်လေသည်။ ဒုတိယ အရေး ပါသော လုပ်ငန်းသည် ငါးပိ ငါးခြောက် လုပ်ငန်းဖြစ်၍ ကမ်းရိုးတန်းနှင့် နီးကပ်သော ကျေးရွာများတွင် လုပ်ကိုင် ကြသည်။ တတိယ အရေးပါသော လုပ်ငန်းသည် သတ္တု လုပ်ငန်းဖြစ်လေသည်။ သို့ဖြစ်၍ သရက်ချောင်း မြို့နယ်၏ ထွက်ကုန်တို့မှာ ဆန်စပါး၊ အုန်းသီး၊ ကွမ်းသီး၊ ဒူးရင်းသီး၊ ငါးပိ ငါးခြောက်နှင့် သံဖြူ၊ ခဲမဖြူ၊ အဖိုက်နက် သတ္တုများ ဖြစ်လေသည်။

မြို့နယ်အတွင်းရှိ စေတီ ပုထိုးတို့အနက် သရက်ချောင်း မြို့အရှေ့ဖက် စုပုံတောင်ပေါ်၌ တည်ထားသောရှင်တောင်း ပုံ စေတီသည် သမိုင်းဝင် ထင်ရှားသော ရှေးဟောင်း စေတီ တဆူဖြစ်၍ အဆက်ဆက် မွမ်းမံ ပြင်ဆင် ကိုးကွယ်ခဲ့ကြ သည်။ သမိုင်းအရ ကောဇာ သက္ကရာဇ် ၁၀၀ ပြည့်နှစ်ခန့်က မောင်နွား အမည်ရှိ မုဆိုးတဦးသည် တောလိုက်ထွက်ရင်း ရသေ့တဦးနှင့် တွေ့၍ တရားပြ ဆုံးမသဖြင့် သတိသံဝေဂ ရကာ မိမိ၌ ပါလာသော လေးမြားလက်နက် ပစ္စည်းများကို တောင်းဖြင့် ထည့်လျှဒါန်း၍ စုပုံ မီးရှို့ ဖျက်ဆီးပြီးလျှင် ရသေ့ ရဟန်း ပြုသွားရာ ထိုလေးမြား လက်နက်တို့ကို စုပုံ မီးရှို့သောနေရာ၌ တည်ထားခဲ့သောကြောင့် ရှင်တောင်းပုံ ဟု ခေါ်တွင်ခဲ့သည်ဟု ဆိုလေသည်။ ဤရှင်တောင်းပုံစေတီ နှင့် စပ်လျဉ်း၍ –

"တောင်းပုံ တောင်းပုံ ရှင်တောင်းပုံ၊ တောင်းပုံ မတ် စောက် တက်မရောက်၊ အောက်က ကွမ်းယာ ရွှေဖလားနှင့် ပူဇော်ပါနော် မယ်ဝေး"ဟူသော ရှေးထားဝယ် ဒိန်းချင်း တပုဒ်မှာ အလွန်ပင် ခေတ်စားခဲ့လေသည်။

**သရက်ထည်ပန်းပင်။** ။ချစ်စဖွယ် အသွေး အရောင်စုံ တို့ဖြင့် ဖူးပွင့် နေသော သရက်ထည်ပန်းပင်တို့သည် ပန်းခြံ ဥယျာဉ်တို့၏ အဆင်တန်ဆာတရပ် ဖြစ်ပေသည်။ ယင်းတို့ သည် ပေါ်လီမိုနီယေးစီအီး မျိုးရင်းဝင် ဖြစ်ကြပြီးလျှင် မျိုးစိတ်ပေါင်း ၃၀ ကျော်ရှိသည်။ ယင်းတို့အနက် ဆိုက်ဗီး ရီးယားနှင့် ချီလီနိုင်ငံတို့၌ ပေါက်ရောက်သော မျိုးစိတ်များ မှတပါး ကျန်မျိုးစိတ် အများစုသည် မြောက် အမေရိက တိုက်၌ မူလပေါက်ရောက်ခဲ့ကြလေသည်။

သရက်ထည် ပန်းပင်သည် အပင်ပျော့မျိုး ဖြစ်သည်။ အရွက်တို့သည် အဖျားချွန်၍ အနားညီပြီးလျှင် ရွက်ဆိုင် ထွက်သည်။ အပွင့်တို့သည် အကိုင်းအခက်တို့၏ အဖျားမှ ထွက်၍ အဆုပ်အခဲ ပွင့်ကြသည်။ မြေကို အနည်းငယ် ပြု ပြင်ပေးလျှင် ဒေသ မရွေးလုပ် စိုက်ပျိုး၍ ဖြစ်လွယ်ပြီး လျှင် ရာသီ ဥတု၏ ဒဏ်ကို အတော်အတန် ခံနိုင်ရည် ရှိ သဖြင့် သရက်ထည် ပန်းပင်များကို နေအိမ် ပန်းခြံများ၌ အစိုက်အပျိုးများသည်။ ထို့ပြင် မျိုးစပ်ခြင်းကိုလည်း ပြုခဲ့ ကြသဖြင့် အသွေးအရောင် ပိုမို စုံလင်လာလေသည်။ တ ပိန်းတည်း အရောင်အသွေးများသာ စုံလင်လာသည်မဟုတ် သေး၊ အစက် အပြောက်များလည်း ပါရှိလာသည်။ ပွင့် ဖတ်ကလေးများသည် အနားညီညီသာမက အချွန်းအဟိုက်



သရက်ထည် ပန်းပွင့်

ကလေးများနှင့်လည်း ဖြစ်လာလေသည်။ ပန်းပွင့်ဖတ်ကလေးများသည် အတော်အတန် နူးညံ့သော်လည်း ပန်းခက်များကို အပင်မှ မခူးပဲ ထားလျှင် ရက်အတော်ကြာအောင် မညှိုးပဲ ပွင့်လန်းနေလေသည်။ နေအိမ် ပန်းခြံများအတွင်း၌ ရောင်စုံ ဖူးပွင့်နေသော သရက်ထည် ပန်းခင်းသည် ရောင်စုံ ပန်းပွင့် ပန်းခက်များဖြင့် သရက်ထည် ဖျင်စကြီးတခု ဖြန့်ခင်းထားသည့်နှယ် ဆင်ဆင်တူသဖြင့် ထိုပန်းပင်ကလေးများကို မြန်မာနိုင်ငံ၌ သရက်ထည် ပန်းပင်ဟု ခေါ်ဝေါ်လေသလောဟု ယူဆဖွယ်ရာရှိပေသည်။ အနောက်တိုင်း အမည်အားဖြင့် ''ဖလော့''ဟု ခေါ်တွင်ပေရာ ဂရိဘာသာ အလိုအားဖြင့် "မီးတောက်မီးလျှံ"ဟု အဓိပ္ပာယ်ရပေသည်။ သရက်ထည် ပန်းသည် အသွေးအရောင် စုံလင်ငြားသော်လည်း မီးတောက်မီးလျှံနှင့် တူသော အရောင်မျိုးကား ယခုတိုင် မရှိသေးချေ။

နှစ်ရှည်ခံ အမျိုးအစားနှင့် တနှစ်ခံ အမျိုးအစား ဟူ၍ နှစ်မျိုး နှစ်စားရှိသည်အနက် နှစ်ရှည်ခံ မျိုးစိတ်များတွင် လေးပေအထိ မြင့်၍ အပွင့်ကြီးသော အမျိုးအစားတို့လည်း ပါဝင်သည်။ အချို့မျိုးစိတ်တို့သည် တပေခန့်သာ မြင့်၍ အချို့မူကား သုံးလက်မခန့်သာ ရှိသည်။ နှစ်ရှည်ခံ အမျိုးအစားတို့ကို ကိုင်းဖြတ်၍၎င်း၊ အမြစ်မှ အပင်ခွဲ၍၎င်း မျိုးပွားယူရသည်။ ထိုနောက် တပင်နှင့်တပင် သုံးပေမှ လေးပေခန့်အထိ ခွာ၍ စိုက်ရသည်။ တနှစ်ခံ အပင်များကိုမူ အစေ့မှ ပျိုးယူရပြီးလျှင် ပျိုးပင်ကလေးများကို ပန်းခင်းသို့ ချသည့်အခါ တပေခန့်စီခွာ၍ စိုက်ရသည်။ မြန်မာနိုင်ငံတွင် ၁၉၃၀ ပြည့်နှစ် တဝိုက်ခန့်မှ စတင်၍ သရက်ထည်ပန်းပင်များကို ခြံဥယျာဉ်များ၌ အလှစိုက်ပျိုးခဲ့ကြရာ တနှစ်ခံ အပင်များကို စိုက်ပျိုးကြ၍ မိုးအကုန် ဆောင်းသို့ အကူးအချိန်ကာလမှစပြီးလျှင် ဝေဝေဆာဆာ ဖူးပွင့်နေသော သရက်ထည်ပန်းခင်းများကို မြင်တွေ့ကြရလေသည်။

**သရက်ပင်။** ။ထူးကဲသော အနံ့ အရသာနှင့် ပြည့်စုံသည့် အသီးကို အကြောင်းပြု၍ သရက်ပင်သည် ကမ္ဘာ့အပူပိုင်းဒေသ၌ ထင်ရှား ကျော်ကြားသော သီးစား သစ်ပင်တမျိုးဖြစ်ပေသည်။ စားကောင်း သောက်ဖွယ်များ၏ ထူးခြား ကောင်းမွန်သော အရသာနှင့်စပ်လျဉ်း၍ 'အသီးတွင် သရက်၊ အသားတွင် ဝက်၊ အရွက်တွင် လက်ဖက်'ဟု စံပြုသော ဆိုရိုးလည်း ရှိခဲ့လေသည်။

သရက်ပင်၏ မူလဘူတသည် အလွန်ပင် ရှေးကျ လှပေသည်။ မည်သည့်ခေတ်အခါက စတင်ပေါ်ပေါက်ခဲ့သည်ကို အတိအကျဆိုနိုင်ရန် ခဲယဉ်းလှသည်။ ဗုဒ္ဓအယူဝါဒကျမ်းကြီး ကျမ်းခိုင်များနှင့် ဇာတ်နိပါတ်တော်များတွင်၎င်း၊ အိန္ဒိယနှင့် မြန်မာ ဒဏ္ဍာရီပုံပြင်များတွင်၎င်း သရက်ပင် သရက်သီးတို့နှင့် စပ်လျဉ်းသော အဖြစ်အပျက်အကြောင်း ထုပ္ပတ်များ အမြောက်အမြား ရှိလေသည်။ သာဝတ္ထိပြည် ကဏ္ဍမ္ဗ သရက်ဖြူပင်ရင်း၌ ဂေါတမ မြတ်စွာဘုရားသခင်၏ ယမကပြာဋိဟာ ပြတော်မူခဲ့ပုံသည် ဂေါတမဗုဒ္ဓဝင်၌ထင်ရှားသော အကြောင်းတရပ်ဖြစ်ပေသည်။ ရှေးခေတ်အိန္ဒိယ၌ သရက်သီးသည် လူတို့၏အရေးပါသော အစားအစာ တရပ်ဖြစ်ကြောင်းမှာ သရက်သီးကို သသ်ကရိုက်ဘာသာဖြင့် ရေးသားသုံးနှုန်းထားသည့် စကားလုံးအားဖြင့် သိရသည်။ သရက်သီးကို အိန္ဒိယ နိုင်ငံ၏ အပ ကမ္ဘာ၌ လူသိများပြား ကျော်ကြားအောင် ဂုဏ်သတင်းပျံ့လွင့်စေခဲ့သူသည် ခရစ်နှစ် ၆၆၂–၆၄၅ ခုနှစ်များတွင်အိန္ဒိယနိုင်ငံဟိန္ဒူစတန်လှည့်ပြင်သို့ ရောက်ရှိခဲ့သူ တရုပ်ခရီးသည်ကြီး ဟူအင်ဆန်ဖြစ်သည်။ မဂိုဘုရင် အက္ကဗာ (ခရစ် ၁၅၅၆–၁၆၀၅) သည် ဒေလီမြို့တော်အနီးတွင် အပင်တသိန်းမကသော သရက်သီးဥယျာဉ်တော်ကြီးကို ပြုစုစိုက်ပျိုးစေခဲ့သည်ဟု သိရှိရပေရာ ထိုခေတ်ထိုအခါက ထိုမျှလောက် များပြားသော အပင်အရေအတွက်ရှိသည့်သစ်သီးဥယျာဉ်များအလွန်နည်းပါးသေးသဖြင့် တန်ခိုးအာဏာကြီးမားသော ထိုဘုရင်ကြီးက ထိုမျှလောက် အရေးထား စိုက်ပျိုးခြင်းကို ထောက်ရှု၍ သရက်သီး၏ ဂုဏ်သတ္တိသည် နှယ်နှယ် ရရ မဟုတ်ကြောင်း ထင်ရှားလှပေသည်။

သရက်ပင်၏ မူလ ပေါက်ရောက်ရာ ဇာတိဒေသသည်

အိန္ဒိယနိုင်ငံအရှေ့ပိုင်း ဒေသများ၊အာသံပြည်နယ်နှင့်မြန်မာနိုင်ငံတို့ဖြစ်သည်ဟု ဆိုကြသည်။ နောင်အခါ အခြား အပူပိုင်းဒေသများသို့လည်း မျိုးပျံ့နှံ့သွားသည်ဟုယူဆကြလေသည်။ သရက်ပင်သည်အိန္ဒိယနိုင်ငံမှတဆင့် အနောက်တိုင်းနိုင်ငံများသို့လည်း မျိုးပျံ့ခဲ့လေသည်။ ပေါ်တူဂီတို့သည် အိန္ဒိယသို့ ရောက်လာကြသောအခါ သရက်သီး၏ ထူးခြားသောအရသာကို မြည်းစမ်းကြရသည်။ ထို့ကြောင့် မိမိတို့နိုင်ငံရင်းသို့မျိုးယူစိုက်ပျိုးခဲ့သော်လည်းမအောင်မြင်ခဲ့သေးပေ။ ပေါ်တူဂီတို့သည် သရက်သီးကို 'မန်းကေး' သို့မဟုတ် 'မန်းဂေး' ဟုခေါ်ဝေါ်ကြရာမှ အင်္ဂလိပ်ဘာသာဖြင့် 'မန်းဂိုး' ဟူသော အခေါ်အဝေါ် သို့ ရွေ့လျောလာခဲ့လေသည်။

သရက်ပင်ကိုအနောက်နိုင်ငံများတွင် ၁၇ ရာစုနှစ်ခန့်တွင်မှ စိုက်ပျိုးအောင်မြင်ကြောင်း တွေ့ရသည်။ ပဌမဆုံး စိုက်ပျိုးဖြစ်ထွန်းသော ဒေသသည် ဗရာဇီးနိုင်ငံဖြစ်သည်။ထိုမှတဆင့် အနောက်အိန္ဒိယကျွန်းစုများသို့ မျိုးပျံ့သွား၍ ယခုအခါ အမေရိကတိုက် အပူပိုင်းဒေသများတွင် တောသရက်ပင်များ အလေ့ကျ ပေါက်ရောက်နေသည်ကိုပင် တွေ့ကြရလေသည်။ သရက်ပင်သည် ပင်လယ်ရေပြင်မှ အမြင့်ပေ ၃,၀၀၀ အထိရှိသော အရပ်ဒေသများတိုင်အောင် ပေါက်ရောက်နိုင်လေသည်။ထိုအပင်သည် ပူအိုက်သောရာသီဥတုကို နှစ်သက်ပြီးလျှင် စမ်းမဆွဲ၊ ရေမဝပ်သော အရပ်ဒေသများ၌ ဖြစ်ထွန်းသည်။ မြန်မာနိုင်ငံတွင် အထက်ပိုင်း၌ နုံးမြေဆန်သော မြစ်ငယ်နှင့် ကျောက်ဆည်နယ်တို့ဘင်ရင်း၊ အောက်ပိုင်းတွင် ဂဝံကျောက်မြေ ဆံသော အရပ်ဒေသများ၌ရင်း ပေါက်ရောက်ဖြစ်ထွန်းလေသည်။

သရက်ပင်သည် အန်နကားဒီယေးစီအီးမျိုးရင်းတွင် ပါဝင်၍ ရုက္ခဗေဒအမည်အားဖြင့် မန်ဂျီဖီးရားအင်ဒီကားဟု ခေါ်သည်။ ရွက်မပြတ်သော အပင်မျိုးဖြစ်ပြီးလျှင် တခါတရံ ပေ ၅၀ မှ ပေ ၆၀ အထိ မြင့်လေသည်။ သို့သော် အချို့သရက်ပင်မျိုးတို့သည်အပင်အလတ်စားများ ဖြစ်ကြသည်။ သရက်ပင်တို့သည် အပင်သက် ရှည်ကြာကြ၍ အကိုင်းအခက် ဝေဖြာစွာထွက်ပြီးလျှင် အရိပ်ကောင်းသော အပင်များအဖြစ် အပူပိုင်းဒေသများ၌ ထင်ရှားလေသည်။

သရက်ရွက်များသည်အကိုင်းဖျားအခက်ဖျားတို့၌စုရုံးထွက်ကြသည်။ရွက်လွှဲထွက်ကြ၍ ရွက်ညှာတို့သည် အရင်းတုတ်သည်။အရွက်တို့၏ပုံသဏ္ဌာန်သည် လှံစွပ်ပုံရှိပြီးလျှင် အလျားခြောက်လက်မမှ ၁၆ လက်မအထိရှည်လျားသည်။ ပြက်အကျယ်သည် နှစ်လက်မခန့်မှ သုံးလက်မခန့် အထိ အမျိုးမျိုး ဖြစ်သည်။ အရွက်တို့၌ အကြောများ ပေါ်လွင်နေသည်။အရွက်ရောင်သည် နုစဉ်အခါ၌ အနီရောင်၊အညိုနုရောင်အစိမ်းနုရောင်များဖြစ်သော်လည်းရင့်လာလျှင်အစိမ်းပုပ်ရောင်ဖြစ်လာသည်။အရွက်တို့သည်အနားညီလေသည်။

ဒီဇင်ဘာလအလယ်မှ ဖေဖွာရီလကုန်အထိသရက်ဖူးများပွင့်ကြသည်။ သရက်အဖူးအပွင့်တို့သည် ထိပ်ဖျားတွင် ရှိသော ပန်းခိုင်မျိုးဖြင့် ဖူးပွင့်ကြ၍ အပွင့်ကလေးများသည်သေးငယ်ပြီးလျှင်ပန်းရောင်ဖျော့ဖျော့ဖြစ်လေသည်။ အဖူးအပွင့်တို့တွင် သင်းပျံ့ပျံ့ ရနံ့ရှိသည်။ အချို့ အပွင့်တို့တွင်ဝတ်ဆံအဖိုအမ နှစ်မျိုးပါ၍အချို့အပွင့်တို့တွင်ဝတ်ဆံဖိုသာပါလေသည်။ သရက်အဖူးအပွင့်တို့ကို မြန်မာနိုင်ငံတွင်အချို့က တို့စရာအဖြစ် စားသုံးကြလေသည်။

မတ်လလောက်တွင် တို့စားနိုင်သော အရွယ် သရက်သီးအကင်းများရရှိသည်။ ဧပြီလကုန်မေလဆန်းမှစ၍ သရက်သီးများ မှည့်ဝင်း လာကြသည်။ သရက်သီးမှည့်များကို ဧပြီလမှ ဇွန်လတိုင်အောင် စားကြရသည်။ အချို့သရက်မျိုးတို့ကား မိုးကျပြီးမှ အမှည့်ပေါ် သဖြင့် ဝါဆိုသရက်မျိုးဟု ခေါ်ကြသည်။ သရက်ပင်သည် အသီးစိမ်းများကိုသော်၎င်း၊ အသီးမှည့်များကို သော်၎င်း ထောင်ပုံ၊ ရာပုံ ဈေး၌တင်၍ရောင်းချနိုင်လောက်အောင် အများအပြားသီးသောအပင်မျိုး ဖြစ်ပေသည်။ သို့သော် နှစ်နှစ်လျှင်တကြိမ် ပို၍အသီးလှိုင်လှိုင် သီးတတ်လေသည်။

သရက်သီးစိမ်းများကို နုစဉ်အခါ တို့စရာအဖြစ် အစိမ်းတို့စားကြသည်။ အသီးအနည်းငယ်ကြီးလာလျှင် သုပ်၍



သရက်ရွက် အပွင့်နှင့်အသီး

လည်းစားကြသည်။ သနပ်ပြုလုပ်ခြင်း၊ ဆားရည်စိမ်ခြင်းစသည်ဖြင့်လည်း ပြုလုပ် သုံးဆောင်ကြသည်။ သရက်သီးမှည့်များကိုမူ ထိုအတိုင်း စားသုံးကြလေသည်။

သရက်သီးတို့သည် အမျိုးအစားလိုက်၍ အရွယ်အစားစား ပုံပန်းသဏ္ဌာန် အမျိုးမျိုး ရှိကြလေသည်။ အငယ်ဆုံးအမျိုးအစားသည် ဆီးသီးခန့်မျှသာရှိ၍ အချို့အမျိုးအစားသည် တလုံးလျှင် တပိသာကျော်ခန့်ပင် အလေးချိန် စီးအောင် ကြီးမားသည်။ အချို့အသီးများသည် ဘဲဥပုံဖြစ်၍ အချို့သည် လုံးဝန်းသည်။ အချို့သည် အရင်းကား၍အဖျားရှူးပြီးလျှင် အချို့တို့သည် ရှည်လျားလျား ပုံသဏ္ဌာန် ဖြစ်ကြသည်။ များသောအားဖြင့် အသီး၏ အဖျားပိုင်းသည် ငှက်နှုတ်သီးကဲ့သို့ ခပ်ကောက်ကောက်ရှိတတ်လေသည်။

သရက်သီးများ မှည့်လာလျှင် အသီးခွံသည် လှပစွာဝါဝင်းလာသည်။ အနံ့လည်း မွှေးလာသည်။ အချို့အသီးမှည့်များသည် အနီတပိုင်း အဝါတပိုင်းဖြင့် တမျိုးတဖုံ လှပကြပေသည်။ အချို့သရက်မျိုးတို့ကား မှည့်နေသည်တိုင်အောင် အစိမ်းပုပ်ရောင်ပင် ရှိနေတတ်လေသည်။

အသီးမှည့်၏အတွင်းသားသည် ဝင်းဝါ၍သော်၎င်း၊လိမ်မော်ရောင်သော်၎င်း ရှိတတ်၍ ပျော့အိနေသော ထိုအတွင်းသားသည် ချိုအေးသော အရသာနှင့်တကွ ချိုမွှေး၍ နေလေသည်။ သရက်သီးမှည့်၏အရသာကို အချို့ စာဆိုကြီးများက နတ်သုဒ္ဓါနှင့်ပင် ခိုင်းနှိုင်းကြလေသည်။ မျိုးကောင်းသော သရက်သီးမှည့်၏ အရသာသည် လျှာတွင်စွဲကျန်ကာ စားရသူ၌နှစ်သိမ့်တင်းတိမ်မှုကိုဖြစ်စေသည်။ ဟယ်မီလတန်အမည်ရှိ အနောက်တိုင်းစာရေးဆရာ အကျော်အမော်ကြီးတဦးက ကမ္ဘာပေါ်ရှိ သစ်သီးများအနက် အပူပိုင်း ဒေသထွက် သရက်သီးမှည့်၏အရသာသည် နှိုင်းယှဉ်၍မရလောက်အောင် ကောင်းလှပေသည်ဟူ၍၎င်း၊ အခြား စာရေးဆရာအကျော်အမော်များကလည်း အသီးဘုရင်ဟုပင်၎င်း တင်စားခေါ်ဝေါ်ကြလေသည်။ ဗုဒ္ဓစာပေကျမ်းဂန် ဇာတ် နိပါတ်တို့တွင် ဟိမဝန္တာ၌ပေါက်ရောက်သော အမ္ဗန္တရသရက်သီးသည် အတုမရှိ၊ထူးမြတ်လှသော အနံ့အရသာဖြင့်ပြည့်စုံသောကြောင့်ဝေဿဝဏ်နတ်မင်းတို့ သုံးဆောင်ကြကြောင်းပါရှိသည်။ယွန်း ပဏ္ဏာသဇာတ်များ၌မူ အမ္ဗန္တရ သရက်သီးကို စားသုံးရသူသည် အိုသော်လည်းပျို၏။ အရေလိပ်ခြင်း၊ ဆံဖြူခြင်းမရှိပြီ၊ အနာမျိုး ၉၆ ပါးမှ ကင်းသည် ဟု ဆိုလေသည်။

မြန်မာဆေးကျမ်းများ အလိုမှာ သရက်ပွင့်သည်နှုတ်ကို မြိန်စေတတ်၏။ ဝမ်းမီးကိုတောက်စေတတ်၏။ မူးဝေသော ဝေဒနာကို၎င်း၊ လက်ခြေ မသိမ်းနိုင်သော အနာကို၎င်း၊ အလွန်ပူသော သည်းခြေနာ၊ အဘိညာဉ် သန္နိပါတ်အနာတို့ကို၎င်း ချမ်းသာစေတတ်၏ဟုဆိုသည်။

သရက်ရွက်သည် နှုတ်ကို မြိန်စေတတ်၏။ ဝမ်းမီးကိုတောက်စေတတ်၏ ဟု ဆိုသည်။ သရက်သီးစိမ်းနု သည် ချဉ်၏။ အဆီမရှိ။ ခြောက်သွေ့၏။ သွေး သည်းခြေကိုပျက်စေတတ်၏။ နှုတ်ကိုမြိန်စေတတ်၏။ သရက်သီးကင်းသည်လည်း ချဉ်ဖန်အရသာရှိ၏။ နှုတ်ကိုမြိန်စေတတ်၏။ လေ သည်းခြေကို ပျက်စေတတ်၏။ သရက်သီးစိမ်းခြောက်သည် ဖန်ချဉ်အရသာရှိ၏။ လေသလိပ်ကို နိုင်၏။ ကျင်ကြီးအစုကိုဖျက်၍ ဝမ်းကိုရှင်စေတတ်၏ဟု ဆိုလေသည်။

သရက်သီးပင်မှည့်သည် ကြေခဲ၏။ ချိုချဉ်ရသာရှိ၏။ လေကို လွန်စွာနိုင်၏။ စဉ်းငယ် သည်းခြေကို ပျက်စေတတ်၏ ဟူ၍ ဆိုပေသည်။ ထိုပြင် သရက်သီးမှည့်ကို နယ်၍ အဖတ်နှင့်တကွ သုံးဆောင်လျှင်၎င်း၊ သရက်သီးမှည့်ရည်နှင့် နွားနို့ကို သုံးဆောင်လျှင်၎င်း၊ ပျားရည်နှင့်ဖြစ်စေ၊ ထောပတ်နှင့်ဖြစ်စေ ရော၍ သုံးဆောင်လျှင်၎င်း ရရှိနိုင်သော အကျိုးအပြစ်များကိုလည်း မြန်မာဆေးကျမ်းများ၌ အကျယ်တဝင့် ဖော်ပြထားပေသေးသည်။

အိန္ဒိယ ဆေးကျမ်းများ အလိုမှာ သရက်သီးမှည့်သည် အားကိုဖြစ်စေ၏။ စိတ်ချောက်ခြားခြင်း၊ အစာမကြေခြင်း၊ ဝမ်းချုပ်ခြင်းတို့ အတွက် အသုံးပြုနိုင်သည်။ မမှည့်သေးသောအသီးကို မီးဖုတ်၍ အသားကိုယူပြီးလျှင် သကြားနှင့် ဖျော်ထားသော ယမကာကို ပလိပ်ရောဂါ၊ ဝမ်းရောဂါများဖြစ်သည့်အခါ သုံးဆောင်ရသည်။ ထိုပြင် တကိုယ်လုံးလိမ်းကျံထားလျှင် ထိုရောဂါများကို ကာကွယ်နိုင်သည်ဟု ဆိုသည်။ အသီးမှသော်၎င်း၊ အခွံမှသော်၎င်း ထုတ်ယူသော အရည်သည် ဆုံ့စို့နာစသော ရောဂါဆိုးများတွင် ချုပ်ဆေးအဖြစ်အသုံးပြုနိုင်သည်။ အချို့ အရပ်ဒေသတွင် ထိုအရည်ကို သွေးလွန်သည့်အခါ လိမ်းကျံပေးကြလေသည်။

သရက်သီးမှည့် လှိုင်လှိုင်ပေါသည့်အခါ သရက်သီးမှည့်ရည်ကို နေခြောက်လှန်း၍ သရက်ပျဉ်ပြုလုပ်ကြသည်။ ထိုသရက်ပျဉ်သည် ရေငတ်ခြင်း၊ အော့အန်ခြင်း၊ လေသည်းခြေကို နိုင်၏။ ပျံ့နှံ့လွယ်၏။ နှုတ်ကိုမြိန်စေ၏။ နေရောင်ဖြင့်ကျက်သောကြောင့် ကြေလွယ်၏ ဟု မြန်မာဆေးကျမ်းတို့တွင် ဆိုလေသည်။

မျိုးကောင်း သရက်သီးသည် နတ်သုဒ္ဓါနှင့် နှိုင်းယှဉ်ရလောက်အောင် အရသာထူးကဲသော်လည်းပေါ့ပျက်ပျက်ချဉ်စုတ်စုတ်နှင့် အနံ့နံသောအညံ့စားသရက်မျိုးများလည်းရှိပေသည်။ မျိုးကောင်းသရက်သီးမှည့်သည် ဇွန်းနှင့်ကော်ခပ်၍ပင် စားနိုင်လောက်အောင် အသားပျော့အိ နူညက်သော်လည်း မျိုးညံ့ သရက်သီးမှည့်များသည် အသားတွင်အမျှင်များလှသဖြင့် အစားရခက်လေသည်။

သရက်သီးမှည့်များသည် နွေရာသီစာ ဖြစ်သော်လည်း အစားများလွန်းလျှင်ဝမ်းလျှောတတ်သည်။ သရက်သီးမှည့်

ပေါ်ချိန် ယင်ကောင်များလည်း အလွန်ပေါတတ်၍ ကာလဝမ်းရောဂါဖြစ်ပွားတတ်သဖြင့် သရက်သီးမှည့် ပေါ်ချိန်တွင် ကာလဝမ်းရောဂါဘေးကို သတိထားကြရလေသည်။

အပူပိုင်းဒေသများ၌ သရက်ပင်များကို အနှံ့အပြားအမြောက်အမြား တွေ့ရသလောက် အမျိုးအစားလည်း များပြားလေရာ သရက်သီးမျိုးပေါင်း ၅၀၀ ကျော်ရှိသည်ဟု ဆိုကြသည်။ အိန္ဒိယ၊ ဖိလစ်ပိုင်၊ ဗီယက်နမ်နှင့် မလ္လာယုကျွန်းဆွယ်တို့မှလည်း သရက်မျိုးကောင်း အများအပြား ထွက်လေသည်။

မြန်မာနိုင်ငံတွင် သရက်မျိုးကောင်း များစွာရှိသည်။ အချို့သည်တနိုင်ငံလုံး၌ ကျော်ကြားထင်ရှားသော အမျိုးအစား ဖြစ်သော်လည်း အချို့မှာမူ ဆိုင်ရာ နယ်ပယ်၌သာ ကျော်ကြားကြသည်။ တခါတရံ သရက်တမျိုးတည်းပင် တနယ်တွင်နာမည်တမျိုးစီဖြင့် ကျော်ကြားနေသည်ကိုတွေ့ကြရလေသည်။ တနိုင်ငံလုံးတွင်သာမက အရှေ့အာရှတိုက်တွင်ပါ ကျော်ကြားသော မြန်မာသရက်မျိုးတို့မှာ မြန်မာနိုင်ငံအထက်ပိုင်းမှ မန္တလေးနက်တဲ့နှင့် အောက်မြန်မာနိုင်ငံအောက်ပိုင်းမှ ဆံစုမွေ့ သရက်တို့ဖြစ်ပေသည်။ မြန်မာနိုင်ငံအထက်ပိုင်းမှ နာမည်ကျော် အခြားသရက်များမှာ ရာဇမတ်၊ အောင်တင်နှင့်ပလူအိုက်တို့ဖြစ်ကြသည်။ဝါဆိုသရက်၊ ရွှေစာရံသရက်တို့သည်လည်း သရက်မျိုးကောင်းများတွင် ပါဝင်သည်။ အောက်ပိုင်းတွင် ဆံစုမွေ့ အပြင် တလဖက်၊ ဥသျှစ်၊ မချစ်စု၊ ပန်းဆွဲတို့သည်လည်း နာမည်ကျော်ကြားသော သရက်မျိုးကောင်းများ ဖြစ်ကြပေသည်။ စိုင်သရက်မျိုးကား အသီးနုစဉ်ကပင်အနံ့မွှေး၍ တို့စားရာ၌ကြွပ်သောကြောင့် အသီးစိမ်းကို ပို၍ နှစ်ခြိုက်ကြလေသည်။

အခြား မြန်မာသရက်မျိုးတို့မှာ ကောက်ချိပ်၊ ချမ်းသာအိုး၊ ငှက်ပြာ၊ စိမ်းစား၊ ဆင်ပေါင်၊ တလုပ်ထော်၊တမောက်၊ တောစာ၊ တောင်စွန်းရင်ကွဲ၊ ထိပ်နီ၊ ထိပ်ပေါက်၊ ထိပ်လုံး၊ မနော်နွယ်၊ ပါးနီ၊ ပျှိတင့်၊ မင်းကြီး၊ မယ်တော်လက်သည်း၊ မရမ်းကြောင်၊ မိကျောင်းခေါင်း၊ မျောက်ခေါင်း၊ ရင်ကွဲ၊ ရေနံ၊ ရေဝင်၊ ရွှေပေ၊ ရွှေလက်ရုံး၊ ရွှေလက်ငါး၊ ရွှေလောက်စာ၊ဝက်ခေါက်၊ သကြားသြဇာ၊ သရက်ညို၊ သရက်နီ၊သရက်ဖြူ၊ သလပ်ညို၊ သလပ်ဖြူ၊ ညိုကြီး၊ သုံးနှစ်၊ အစေ့စုတ်၊ အိုးတုတ် စသည်တို့ပင်တည်း။ အိန္ဒိယ နိုင်ငံမှ သရက်မျိုးတို့ကိုလည်း မျိုးယူ စိုက်ပျိုးကြရာ ထိုသရက်မျိုးတို့ကို ဗင်္ဂလားဟု ခေါ်ကြသည်။ ဗင်္ဂလားသရက် မျိုးပေါင်းလည်း အများအပြား ရှိလေသည်။

သရက်ပင်မျိုးများကို မြန်မာနိုင်ငံ၌ များသောအားဖြင့် အစေ့ကို ပျိုး၍ စိုက်ပျိုးကြသည်။ သရက်သီးတွင် အစေ့တစေ့တည်း ပါရှိသည်။ အစေ့ခွံအိမ်သည် ခပ်ပြားပြားပုံသဏ္ဍာန် ဖြစ်၍ အမျှင်များလည်း ရှိလေသည်။ အစေ့မှအပင်များပေါက်လွယ်သော်လည်း မျိုးကောင်းသည့်အစားထဲမှ အကောင်းဆုံး သရက်သီးအစေ့ကို ပျိုးနိုင်မှသာလျှင် မူလအသီး၏ အရသာကို မှီနိုင်သည်။ ထိုပြင် အသားနှင့်ပြီးစ အစေ့ကို ပျိုးမှသာလျှင် အညှောက်ထွက် ကောင်းလေသည်။ မြန်မာသရက်မျိုးတို့၏ အစေ့တို့သည် များသောအားဖြင့် ပင်လောင်းများသော အစေ့မျိုးဖြစ်ကြ၍ တစေ့မှ အပင်ပေါက် နှစ်ပင်မှ ခြောက်ပင်ထက်ပင် ပိုမို၍ ထွက်နိုင်လေသည်။

အိန္ဒိယနှင့် အခြားသော အပူပိုင်းဒေသ နိုင်ငံများ၌ သရက်ကို ကိုင်းကူးခြင်း (ပင်စည်ကူးခြင်း)ဖြင့် စိုက်ပျိုးကြသည်။ ထိုနည်းသည် အစေ့စိုက်ခြင်းထက် ပို၍ အကျိုးကျေးဇူးများသည်။ အစေ့စိုက် သရက်ပင်သည် ရှစ်နှစ်ခန့်ကြာမှ အသီး သီး၍ ကိုင်းစိုက်ပင်သည် လေးနှစ်ဖြင့် အသီးသီးနိုင်သည်။အစေ့စိုက်အပင်သည် ကိုင်းစိုက်ပင်နှင့် နှိုင်းစာလျှင် အသီး နည်းသည်ဟုလည်း ဆိုကြသည်။ ထိုပြင် ကိုင်းစိုက်ပင်သည် အစေ့စိုက်ပင်ထက် မူလပင်မ၏ အသီးအရသာအတိုင်း ရရှိစေနိုင်သည် ဟုလည်း ဆိုကြလေလည်။

အစေ့စိုက်ပင်များကို ပျိုးခင်းမှ ရွှေပြောင်းလျှင် အနက်သုံးပေ အကျယ်သုံးပေရှိသောတွင်းကိုတူး၍မြေသြဇာထည့်ပြီးမှ အပင်ပေါက်ကို ပြောင်းစိုက်ရသည်။ မိုးတွင်းအခါ၌သာလျှင် အပင် ပြောင်းရွှေသင့်ပေသည်။ စိုက်ခင်းတွင် တပင်နှင့်တပင်ကို ၂၆ ပေမှ ပေ ၃၀ အထိ ကွာခြားစေရသည်။ မြေကောင်းသည့် နေရာမျိုးဖြစ်လျှင် ၃၂ ပေထက်ပင် ပို၍ အလှမ်းကွာပေးရသည်။ ကိုင်းစိုက်ပင်များကို ပေ ၃၀ ခန့် ကွာခြား၍ စိုက်ရလေသည်။

သရက်ပင်၏ အခေါက်သည် ညိုမှိုင်းမှိုင်း အရောင် ရှိ၍ အသားသည် ညိုမွဲမွဲ ဖြစ်လေသည်။ အသားသည် အတော်အတန်မာ၍ ခိုင်ခံ့သည်။ အနည်းငယ် ကြမ်းတမ်းသဖြင့် ချောမွတ်အောင် ပြုလုပ်ရန် ခဲယဉ်းသည်။ လေသလပ်ခံ၍ အသားသေအောင်ပြုလုပ်ရန် မခဲယဉ်းသော်လည်း လျင်မြန်စွာ အခြောက်မခံပါက အရောင် ပြောင်းသွားတတ်လေသည်။ သရက်သားကို အိမ်အဆောက်အအုံ၊ သေတ္တာ၊ လှေ၊ လှည်းဘီး၊ လှော်တက်၊ရေစည် စသည်တို့ ပြုလုပ်ရာ၌ အသုံးပြုနိုင်သည်။ ထိုပြင် မီးခြစ်အိမ် ပြုလုပ်ရန်အတွက်လည်း သရက်သားကိုအသုံးပြုကြသည်။လောင်းလှေများကိုလည်း သရက်သားဖြင့် ပြုလုပ်ကြသည်။ သရက်ပင် အခေါက်မှ အစေးတမျိုးကို ဆိုးဆေး၌ အသုံးချနိုင်ကြောင်း သိရှိရလေသည်။

တနင်္သာရီတိုင်း သောင်ရင်းနယ်တွင် သရက်မျိုးဝင် ဖြစ်ကြသော တောင်သရက်၊ သရက်စမ်း၊ သရက်ကင်း၊ သရက်ကန်၊ သရက်လည် ဟုခေါ်သော အပင်များ ရှိသေးသည်။ ယင်းတို့သည် အန်နကားဒီယေးစီအီး မျိုးရင်းဝင် ဖြစ်သော်

လည်း မျိုးစိတ် ကွဲပြားခြားနားသည်။ ဆင်နင်း သရက်သည်လည်း သရက်တမျိုးပင်ဖြစ်၍ တောသရက် ဟုလည်း ခေါ်ဝေါ်ကြလေသည်။ (ဆင်နင်းသရက် — ရှု။) ထို့ပြင် သီဟိုဠ်သရက်သည်လည်း အခြားသရက်ပင်များနှင့်မျိုးရင်းတူ ဖြစ်သော်လည်း မျိုးစိတ်ကွဲပြားလေသည်။ (သီဟိုဠ်သရက်ပင်— ရှု။)

**သရက်မြို့။** ။သရက်ခရိုင်၏ ခရိုင်ဝန်ရုံးစိုက်မြို့ ဖြစ်သော သရက်မြို့သည် ဧရာဝတီမြစ်၏ အနောက်ဖက်ကမ်းပေါ်တွင် တည်ရှိသည်။ သရက်မြို့တည်ရာ အရပ်တွင် ရှေးက တောကျောင်းဟုခေါ်သည့် ရွာငယ်တခု ရှိခဲ့သဖြင့် တောကျောင်းမြို့ဟုလည်း အချို့က ခေါ်ဝေါ်ကြလေသည်။

သရက်မြို့ ဟူသော အမည်သည် သတ်ရက်မြို့ ဟူသော အမည်မှ ရွေ့လျောလာခြင်းဟု အချို့က ဆိုကြသည်။ သတ်ရက်မြို့ ဟုခေါ်တွင်ခဲ့ခြင်းမှာ ရှေးက ထိုမြို့ကို စိုးမိုးအုပ်ချုပ်သူ မင်းတပါးသည် မိမိ၏ သားတော်တပါးပါးက မိမိအား လုပ်ကြံလိမ့်မည် ဟု ပုဏ္ဏားဖြူ ပုဏ္ဏားညိုတို့၏ ဟောကိန်းရှိသဖြင့် သားတော်ကလေး မွေးဖွားလာတိုင်း သုတ်သင်စေခဲ့သည်။ ထို့ကြောင့် ထိုမင်း စိုးစံသည့်မြို့သည် သတ်ရက်မြို့ ဟုခေါ်တွင်ခဲ့သည် ဟုဆိုကြသည်။

ထိုဒဏ္ဍာရီပုံပြင်၏ အဆိုကို ဆက်လက် ဖော်ပြရသော် မွေးဖွားလာသော သားတော်ကလေး တပါးကို မိဖုရားကြီးက လျှို့ဝှက်ထားခဲ့သည်။ အရွယ် ရောက်လာသောအခါ ထိုသားတော်မင်းသားသည် ခမည်းတော်အား လုပ်ကြံခြင်း မပြုခဲ့သည်သာမက ခမည်းတော်အား ရန်သူတော်များက ဝိုင်းရံစဉ် ရန်သူတော်တပ်များကို အောင်မြင်စွာ တွန်းလှန်တိုက်ခိုက်ခဲ့သည်ဟု ဆိုသည်။ ထိုမင်းသားသည် ရန်သူတပ်များကို တိုက်ခိုက်နှိမ်နင်းရန်ချီတက်လာစဉ်က ရပ်တန့်စခန်းချခဲ့သောနေရာကို ယခုတိုင်"မင်းတဲ" ဟုခေါ်၍ သရက်မြို့မှ ခြောက်မိုင်ခန့်အကွာတွင် တည်ရှိလေသည်။

သမိုင်းသုတေသီတို့ အလိုမှာ သရက်မြို့ကို ဧရစ် ၁၁၀၆ ခုနှစ်ခန့်က ပုဂံမင်း ကျော်စွာ၏ သားတော် မင်းရှင်စောလက်ထက်တွင် စတင်တည်ထောင်ခဲ့သည်ဟု ဆိုကြသည်။ ထိုခေတ်က သရက်မြို့၏ အခြေ အနေသည် အတော် အတန် ဖွံ့ဖြိုး စည်ပင်ခဲ့ဟန် ရှိသော်လည်း ပုဂံပျက်ပြီးနောက်တွင် သရက်မြို့သည် အခြေအနေ ဆုတ်ယုတ်ခဲ့ဟန် တူပေသည်။ ထို့ကြောင့် ဒုတိယ အင်္ဂလိပ် မြန်မာစစ်ပွဲအပြီးတွင် အင်္ဂလိပ်တို့ သိမ်းပိုက်စဉ်က သရက်မြို့၏ အခြေအနေမှာ အိမ်ခြေ ၂၀၀ မှ ၃၀၀ ခန့်အတွင်းသာရှိသည်။ ထိုနောက် ထိုမြို့သည် အင်္ဂလိပ်နှင့်မြန်မာတို့၏ နယ်ခြားမြို့ဖြစ်လာသည်။အင်္ဂလိပ်တို့သည် ၁၈၅၄ ခုနှစ်တွင် သရက်မြို့၌ စစ်တပ်များချထားရန် တပ်မြို့ကို သရက်မြို့၏မြောက်ဖက်တွင် ဆောက်ခဲ့သည်။

ထိုတပ်မြို့သည် ၁½ မိုင် ပတ်လည်ရှိ၍ အနေအရပ် လုပကျယ်လွင့်ပြီးလျှင် သစ်ပင် တောအုပ်တို့ဖြင့် ဉယျာဉ်ကြီးတခုသဖွယ် သာယောင်သာယာ ရှိပေသည်။ ထိုတပ်မြို့သည် အထက် မြန်မာနိုင်ငံကို သိမ်းပိုက်ပြီးသည်အထိ အရေးပါသော တပ်မြို့ ဖြစ်ခဲ့လေသည်။

တပ်မြို့ ဆောက်လုပ် ပြီးသည်နောက်တွင် သရက်မြို့သည် ဖွံ့ဖြိုးစည်ကားလာသည်။၁၉၀၁ ခုနှစ်တွင် သရက်မြို့၏ လူဦးရေ ၁၅,၈၂၄ ယောက်မျှ ရှိခဲ့သည်။ တပ်မြို့ကို ဖျက်သိမ်းလိုက်ပြီးနောက်တွင် မြို့၏ အခြေအနေ ဆုတ်ယုတ်လာ၍ လူဦးရေလည်း လျော့နည်းသွားသည်။ ၁၉၆၃ ခုနှစ် သန်းကောင်စာရင်းအရ လူဦးရေ ၁၃,၁၂၀ ယောက်မျှသာ ရှိလေတော့သည်။

သရက်မြို့၏ အနေအထားသည် ကွတ်ကွတ်ရွတ်ရွတ် ရှိသည်။ မြို့၏ အလယ်တွင် အိမ်ကြီး အိမ်ကောင်းများ ရှိသည်။ သို့သော် ဝင်းနှင့် ခြံနှင့် မဟုတ်ပဲ လမ်းမနှင့် ကပ်လျက် ရှိကြသည်။ ခရိုင်ဝန်ရုံးစိုက်သည့် မြို့ဖြစ်သည့် အားလျော်စွာ အစိုးရရုံးများ၊ ဆေးရုံ၊ ဈေးရုံ စသော ပြည်သူ့အဆောက်အုံများနှင့် ၁၈၆၉ ခုနှစ်တွင် ဆောက်လုပ်သည့် အကျဉ်းထောင်ကြီးလည်းရှိသည်။ ဖျက်သိမ်းလိုက်သော အင်္ဂလိပ် တပ်မြို့ကို ဗော်စတယ် ကျောင်းခေါ် ကလေး အကျဉ်းထောင် ပြုလုပ်ထားသည်။ သရက်မြို့ပေါ်တွင် အစိုးရ အထက်တန်းကျောင်း တကျောင်း အပြင် အလယ်တန်းကျောင်းများနှင့်မူလတန်းကျောင်းများလည်း ရှိလေသည်။

သရက်မြို့ရှိ မြန်မာ နိုင်ငံ၏ ပဌမဆုံး ဗိလပ်မြေ စက်ကြီးကို ၁၉၃၀ ပြည့် အကျော်တွင် ဆောက်လုပ်ခဲ့သည်။ ထိုစက်ကြီးအတွက် လိုအပ်သော ရေနံခာတ်ငွေ့၊ ထုံးကျောက်၊ ရွှံ့စေးနှင့် သဲတို့ကို ကျောထောက် နောက်ခံ နယ်များမှ အလွယ်တကူရရှိ၍ ဂေါဝံကျောက်ကို မင်းလှ၊မင်းဘူး၊မကွေး၊ ချောက်မြို့တို့မှ ရရှိသဖြင့် ဗိလပ်မြေများကို စရိတ် ကျဉ်းကျဉ်းဖြင့် ထုတ်လုပ်နိုင်ခဲ့လေသည်။

ထိုစက်ကြီးမှ တနှစ်လျှင် ဗိလပ်မြေ တန် ၆၀,၀၀၀ ကျော် ထုတ်လုပ် နိုင်ခဲ့သည်။ ဒုတိယ ကမ္ဘာစစ် မတိုင်မီကာလက ပြည်တွင်းသုံး ဗိလပ်မြေ၏ ၉၄ ရာခိုင်နှုန်းကို ထုတ်လုပ်နိုင်ခဲ့၍ ၁၉၃၇ ခုနှစ်မှ အစပြုကာ ၁၂ မှ ၂၅ ရာခိုင်နှုန်းခန့်ကို နိုင်ငံခြားသို့ နှစ်စဉ် တင်ပို့နိုင်ခဲ့လေသည်။

ဒုတိယ ကမ္ဘာစစ် အတွင်း စစ်ဒဏ်ကို ခံလိုက်ရသဖြင့် ၁၉၄၂–၁၉၄၇ ခုနှစ်များတွင်စက်ကြီးကိုပိတ်ထားခဲ့ရသည်။ ၁၉၄၉ ခုနှစ်တွင် ပြန်လည်ဖွင့်လှစ်၍ လုပ်ငန်း စတင်ပျိုးချိန်တွင် ပြည်တွင်း သောင်းကျန်းမှုများကြောင့် ပြန်ပိတ်ရပြန်သည်။ ထို့ကြောင့် ၁၉၅၁ ခုနှစ်မှသာစ၍ ပြန်လည်ထုတ်လုပ်နိုင်ခဲ့ရာ ပဌမနှစ်တွင် တန်ချိန် ၈,၃၆၈ မျှသာ ထွက်ရှိသည်။ နောက်နှစ်များတွင် တစတစဖြင့် အထွက် ပိုမို များပြားလာ



သရက်မြို့သည် မြန်မာနိုင်ငံတွင် ရှေးဦးစွာ ဗိလာတ်မြေ ထုတ်လုပ်ရာမြို့ ဖြစ်သည်။

ရာ ၁၉၅၂–၅၃ ခုနှစ်တွင် တန်ချိန် ၄၄,၅၇၂ အထိ တက်လာလေသည်။ ၁၉၅၄ ခုနှစ်တွင် ဗိလတ်မြေ စက်ကြီးကို ပြည်သူပိုင် ပြုလုပ်လိုက်သည်။ ပြည်သူပိုင် ပြုလုပ်ပြီး၍ တနှစ်၊ နှစ်နှစ်ခန့်မျှသာ ဗိလတ်မြေ ပြန်၍ အထွက်ကောင်းလာပြီးလျှင် စစ်မတိုင်မီ စံချိန်နီးပါးမျှ တက်လာသော်လည်း ၁၉၅၆–၅၇ ခုနှစ်မှစ၍ အထွက် ဆုတ်ယုတ်သွားပြန်လေသည်။ ယင်းသို့ ဆုတ်ယုတ်ရခြင်းမှာ ရေနံဓာတ်ငွေ့ လုံလုံလောက်လောက် မရခြင်းကြောင့် ဖြစ်သည်။ ထိုကြောင့် ၁၉၅၉-၆၁ ခုနှစ်တွင် ရေနံဓာတ်ငွေ့အစား ရေနံကို အသုံးပြုလျက် စက်လည်စေခဲ့ရာ ဗိလတ်မြေ အထွက် ကျေနပ်လောက်အောင် တိုးတက်လာသည်။ သို့သော် ထုတ်လုပ်မှုစရိတ်သည် ဓာတ်ငွေ့ သုံးခြင်းလောက် မသက်သာပေ။ ယင်းသို့ကြောင့် ဓာတ်ငွေ့ လုံလုံ လောက်လောက် ရနိုင်ရန် ရှာဖွေလျက်ရှိရာ အောင်မြင်ဖွယ်ရာ မျှော်လင့်ချက် ရှိပေသည်။

နိုင်ငံတွင်း၌ပင် ဗိလတ်မြေ အသုံးများလာသဖြင့် လုံလောက်စွာ ထုတ်လုပ်နိုင်ရန် ဗိလတ်မြေ စက်သစ်ကြီးတခုကို ၁၉၅၈ ခုနှစ်မှ စ၍ စက်မှုလက်မှု တိုးချဲ့ရေးကော်ပိုရေးရှင်းမှ စတင် ဆောက်လုပ်ခဲ့ရာ ၁၉၆၂ ခုနှစ်တွင် ပြီးစီးခဲ့သည်။ စက်သစ်ကြီးပြီးသွား၍ဗိလတ်မြေစက်နှစ်ခုမှထုတ်လုပ်မှုအင်အားသည်နှစ်စဉ်ခန့်မှန်းခြေအားဖြင့် တန်ချိန်၁၈၀,၀၀၀ဖြစ်သည်။

သရက်မြို့သည် ဧရာဝတီ မြစ်ကမ်းပေါ်၌ တည်ရှိသော်လည်း မိုးရာသီအခါ၌သာ မန္တလေး အစုန် အဆန် သင်္ဘောကြီးများ ဆိုက်ကပ် နိုင်သည်။ နွေရာသီတွင် မြစ်အတွင်း သောင်များထွန်းသဖြင့် သင်္ဘောဆိပ်ကို ဗိလတ်မြေစက်ကြီး ဆိပ်ကမ်းတွင်၎င်း၊ ဗော်စတယ် ကလေးအကျဉ်းထောင်အနီးသို့၎င်း ပြောင်းရွှေ့ ဆိုက်ကပ်ရလေသည်။

မြို့ပေါ်ရှိ အဓိက စေတီပုထိုးများတွင် ရွှေသက်လွတ်စေတီသည် အပါအဝင် ဖြစ်သည်။ ထိုစေတီကို အင်းဝပြည့်ရှင် မင်းကြီးစွာစော်ကဲသည် သက္ကရာဇ် ၇၃၄ ခုနှစ်ခန့်တွင် တည်ခဲ့သည်။ မင်းကြီးစွာစော်ကဲ ငယ်စဉ်က ရခိုင်ဘုရင် မင်းထီးသည် သရက်မြို့ကို လာရောက် တိုက်ခိုက်၍ မင်းရှင်စောနှင့်တကွ သားမယားတို့ကို ရခိုင်သို့ ဖမ်းဆီးခေါ်ဆောင်သွားရာ မင်းကြီးစွာစော်ကဲသည်လည်း ခမည်းတော် မယ်တော်တို့နှင့် အတူ ရခိုင်သို့ ပါခဲ့ဘူးသည်။ နောင်အင်းဝ၌ မင်းအဖြစ်ကို ရရှိပြီးနောက်တွင် ထိုစဉ်က ရခိုင်သို့ ပါခဲ့ရသော်လည်း အသက်မသေ၊ ချမ်းသာလွတ်ကင်းရသည်ကို အကြောင်းပြု၍ မိမိ၏ ဇာတိဖြစ်သော သရက်မြို့တွင် ဘုရားစေတီတဆူတည်ကာ ရွှေသက်လွတ် ဟူ၍ ဘွဲ့နာမံ သတ်မှတ်ခဲ့ခြင်း ဖြစ်သည်ဟု ဆိုကြသည်။ အခြား ထင်ရှားသော စေတီ ပုထိုးများမှာ အိန္ဒိယ နိုင်ငံ၊ မဂဓတိုင်းရှင် အသောက

မင်းကြီး၏ ကောင်းမှု စေတီတဆူ ဟုဆိုကြသော ရွှေမုဋ္ဌော စေတီနှင့် ရတနာမာန်အောင်စေတီတို့ ဖြစ်ကြလေသည်။

**သလဲပင်။** ။တလည်းပင် — ရှု။

**သလွန်။** ။သလွန်သည် နန်းမ နန်းဦး၌ တည်ထားမြဲ ဖြစ်သော ဘုရင်မိဖုရားတို့၏ အိပ်ရာခံတင် အထူးပင် ဖြစ်သည်။ အုံးထား လက်တင်တို့၌ ကုမုဒြာ ကြာဖူး ကြာပွင့် ကြာရိုး ကြာရွက်တို့ဖြင့် လိမ်ယှက်နေဟန် ရွှေစသော ရတနာတို့ဖြင့် မွမ်းမံ ခြယ်လှယ်ထားသည်။ အလျား ခုနစ်တောင်၊ အနံ ခုနစ်တောင်၊ ခြေခြောက်ချောင်းတပ် ဖြစ်သည်။ ပြူစောထီးသည် ခမည်းတော် နေမင်းက လေးမြားအပ်၍ ငှက်၊ ဝက်၊ ဘီလူး၊ ဗူး၊ ရှူးပျံ၊ ကျား ရန်သူ ခြောက်ပါးကို နှိမ်နင်းအောင်မြင်၍ မင်း၏အဖြစ်ကို ရှောက်သည့် အောင်ခြင်း နိမိတ် ထင်ရှားစေလိုသဖြင့် ငှက်၊ ဝက်၊ ဘီလူး၊ ဗူး၊ ရှူးပျံ၊ ကျား တို့ သဏ္ဌာန် ခြောက်ရုပ်လုပ်၍ မပြတ်အိပ်ရာနေရာတွင် အောက်အခံဖြစ်သော ခြေခြောက်ချောင်း တပ်ခြင်း ဖြစ်သည်ဟု ရွှေဘုံနိဒါန်း၌လာသည်။

သလွန်သည် အခြားနေရာတို့ထက် သာလွန်သောကြောင့် သာလွန်နေရာဟုခေါ်ရာမှ သလွန် ဖြစ်လာသည်ဟု အချို့က ဆိုကြသည်။အချို့ကမူ အိပ်ရာ၊ ခံတင်၊ ခုံမြင့် ဟု အဓိပ္ပာယ်ရသော မွန်စကား ဒေန်သွာန် ဟူသော စကားမှ လာသည်ဟုဆိုကြသည်။ ဒေန်သွာန်မှ ဒေန်သဝန်၊ ယင်းမှ သလဝန်၊ သလွန် ဟူ၍ ဖြစ်လာတန်ရာသည်ဟု ယူကြသည်။ သလဝန် ဟူသော အရေးအသားကို ပုဂံမြို့အရှေ့တောင်ယွန်း မြောက်ကူနီဘုရား ကျောက်စာ စာကြောင်းရေ ၁၄ ၌ —

"တာဝ် တန်ကျတ်ရိယ် ၁ ရှူယ်၊ သလဝန် ၁၊ ဉာမ်ရာတာဝ်နက်၊ ပူစင် တံတိုင် ၁၊ ခံတင်မွန် ၁၊ ခင်နှိုဒ် အစုံ၊ ကွံချပ် ၁"

ဟူ၍ ပါရှိလေသည်။

ဘုရင်မင်းမြတ်တို့၏ စက်တော်ခေါ်ရာ သလွန်သည် နန္ဒကုမာရမင်း လက်ထက်မှ စ၍ ပေါ်ပေါက်ကြောင်းနှင့် ရွှေဘုံနိဒါန်း၌ပင် အကျယ်ပြဆိုသည်။

မြတ်စွာဘုရား သခင်၏ စက်လက္ခဏာတော်ပေါင်း ၁၀၈ ကွက်တွင် ရွှေအင်းပျဉ် ရွှေသလွန်ပုံ ပါလေသည်။

**သဟဇီဝန။** ။ဆင်ဗိုင်အိုဆစ် — ရှု။

**သဟမ္ပတိဗြဟ္မာ။** ။ဂေါတမ ဘုရားသခင်သည် အလုံးစုံသော ဘုရားရှင်တို့ ကြံတော်မူမြဲအတိုင်း တရား မဟောလို



လန်ဒန်မြို့ရှိ ဝိတိုရိယနှင့် အဲလဗတ် ပြတိုက်အတွင်း၌ ပြသထားသော သလွန်တော်

သောအကြံ ဖြစ်တော်မူသည်ကို တရားဟောရန် လျှောက်ထား တောင်းပန်ခဲ့သူကား သဟမ္ပတိ ဗြဟ္မာကြီးဖြစ်သည်။

သဟမ္ပတိဗြဟ္မာကို ဝိနည်းမဟာဝါပါဠိတော်နိဿယတွင် ရွှေဥမင် ဆရာတော်က ပဌမစျာန်ဘုံ၌ဖြစ်သော ပဌမစျာန်ဘုံသားဟု ဆိုသည်။ မူလပဏ္ဏာသ အဋ္ဌကထာ ပရာဘဝသုတ် အဖွင့်၌လည်း ပဌမစျာန်ကို ရကြောင်း၊ ပဌမစျာန်ဘုံ၌ အသင်္ချေယျကပ်လုံး အသက်ရှည်သော ဗြဟ္မာဖြစ်ကြောင်းလာသည်။ သို့ရာတွင် သုတ္တနိပါတ် အဋ္ဌကထာ ကောကာလိကသုတ် အဖွင့်၌ကား သဟမ္ပတိ ဗြဟ္မာသည်၊ အနာဂါမိဖိုလ်ကိုရ၍ သုဒ္ဓါဝါသဘုံ၌ ဖြစ်သည်ဟု ဆိုသည်။ သဟမ္ပတိ ဗြဟ္မာကြီးကား ကဿပဘုရားရှင်၏ သာသနာတော်၌ သဟက မည်သော ပဌမစျာန်ရ ရဟန်းတော် ဖြစ်ခဲ့လေသည်။ ထိုဘဝမှ စုတေမနေ သေလွန်သောအခါ သဟမ္ပတိ ဗြဟ္မာဖြစ်လာလေသည်။

ဂေါတမ ဘုရားသခင်သည် သတ္တသတ္တာဟ စံတော်မူရာတွင် နောက်ဆုံးဌာနဖြစ်သော ရာဇာယတန လင်းလွန်းပင်ရင်း၌ ခုနစ်ရက်ပတ်လုံး သမာပတ်ကို ဝင်စားတော်မူ၍ ခုနစ်ရက်စေ့ရောက်သောအခါ တပုဿနှင့် ဘလ္လိက ကုန်သည်ညီနောင် လှူဒါန်းဆက်ကပ်သော ပျားမုံ့ဆုပ်ဆွမ်းကို ဘုဉ်းပေးတော်မူပြီးသော် ဗောဓိပင် အရှေ့ဖက်ရှိ အဇပါလ ညောင်ပင်ရင်းသို့ တဖန်ပြောင်း၍ ခုနစ်ရက်ပတ်လုံး ဝိမုတ္တိချမ်းသာကို ခံစား၍ နေတော်မူလေသည်။ (သတ္တဌာန။ ဘလ္လိက တပုဿ — ရှု။) ယင်းသို့ နေတော်မူစဉ် မြတ်စွာဘုရားအား ဤသို့ အကြံတော်သည်ဖြစ်၏။ 'ငါ ထိုးထွင်း၍ သိအပ် ရအပ်သော တရားတော်သည် အလွန်နက်နဲသိမ်မွေ့၏။ သူတပါးတို့သည် သိနိုင်ခဲ၏။ ဤသတ္တဝါအပေါင်းတို့သည်ကား ကာမဂုဏ် ငါးပါး၌သာ လိုက်စားပျော်မွေ့ကြ၏။ ငါဟောပြောသော်လည်း တရားတော်ကို မမြင်နိုင်ကုန်ရာ၊ ငါပင်ပန်းရုံသာ ရှိချိမ့်မည်' ဟု ခပ်သိမ်းသော ဘုရားတို့ ကြံမြဲအကြံတော်အတိုင်း 'ငါတရားမဟောပြီ'ဟု ကြံတော်မူသည်။ ထိုသို့ ကြံတော်မူသည်ကို သဟမ္ပတိဗြဟ္မာကြီး သိလေ၍ 'နဿတိ ဝတ ဘောလောကော၊ အကြင်လောကကြီး၌ မြတ်စွာဘုရားသည် တရား မဟောဟု အကြံဖြစ်တော်မူ၏။ ထိုလောကသည် ပျက်လတ္တံ့'ဟု ကြွေးကြော်ကာ တသောင်းသော စကြဝဠာ၌နေသော နတ်ဗြဟ္မာအပေါင်းတို့ကို ခေါ်၍ မြင့်မိုရ်တောင်လုံးမျှ လောက်သော ရတနာပန်းကုံးကို ဆောင်ပြီးလျှင် ဘုရားသခင်ထံတော်မှောက်သို့ ရောက်လာလေသည်။ ထံတော်မှောက်တွင် ပခုံးတဖက်၌ ကိုယ်ဝတ်စမွာယ် တင်၍ မြေ၌ လက်ျာပုဆစ် ဒူးဝန်းကို ထောက်ကာ မြတ်စွာဘုရားအား ရတနာပန်းကုံးဖြင့် ပူဇော်လျက် 'ဒေသေတု ဘန္တေ ဘဂဝါ၊ ဓမ္မံ ဒေသေတု သုဂတော'စသော ဂါထာဖြင့် 'အရှင်ဘုရား တရား ဟောတော်မူပါ၊ သတ္တဝါတို့အား တရားဟောရွတ်ချွတ်ခြင်းငှာလျှင် ပါရမီတော်ကို ဖြည့်တော်မူခဲ့ပါသည်။ ကိုယ်တော်ဘုရားမှ တရားမဟောချေသော် မည်သူဟောပါအံ့နည်း။ မဂဓရာဇ်တိုင်း၌ ပုရာဏကဿပ အစရှိသော တိတ္ထိတို့သည် ဘုရားမဟုတ်ပဲလျက် ဘုရားဟုဝန်ခံ၍ များစွာသော သတ္တဝါတို့ကို လှည့်ပတ်သျှက် မိစ္ဆာဝါဒကို ပြ၍ နေကြချေပြီ။ ကိလေသာတည်းဟူသော အညစ်အကြေးကင်းသော မြတ်စွာဘုရား၊ တရားစည်ကြီးကို တီး၍ နိဗ္ဗာန်တံခါးကို ဖွင့်တော်မူပါဘုရား၊ အပါယ်တံခါးကို ပိတ်တော်မူပါဘုရား၊ ကျွတ်ထိုက်သော သတ္တဝါလည်း ရှိပါလိမ့်မည်။ ထိုသူတို့အား တရားမိုးဖြင့် သွန်းဖြိုးတော်မူပါဘုရား' ဟု လျှောက်ထား တောင်းပန်၏။

သဟမ္ပတိဗြဟ္မာကြီးသည် ပဌမအကြိမ် လျှောက်ထား တောင်းပန်သည်ကို ဘုရားသခင်သည် ငြင်းပယ်တော်မူ၏။ ဒုတိယအကြိမ်လည်း ထပ်မံတောင်းပန်သည်ကို ငြင်းမြဲငြင်းတော်မူသည်။ သဟမ္ပတိ ဗြဟ္မာကြီးသည် မလျှော့သော လုံ့လဖြင့် တတိယအကြိမ် တောင်းပန်ပြန်သည်။ မြတ်စွာဘုရားသည် ဗြဟ္မာကြီး၏ တရားဟောရန် တောင်းပန်ချက်ကို သုံးကြိမ်သုံးခါတိုင် ပယ်လှန်တော်မူသည်။ နောက်ဆုံးမှ သဟမ္ပတိ ဗြဟ္မာ၏ တောင်းပန်ခြင်းကို သည်းခံတော်မူ၍ ဣန္ဒြိယပရောပရိယတ္တိဉာဏ် တည်းဟူသော ဗုဒ္ဓစက္ခုဖြင့် လောကကိုကြည့်တော်မူသည်ရှိသော် ပညာမျက်စိ၌ ကိလေသာမြူ နည်းသော သတ္တဝါ၊ သဒ္ဓါ အစရှိသော ထက်သော ဣန္ဒြေရှိသော သတ္တဝါ၊ သိစေလွယ်နိုင်သော သတ္တဝါ၊ သိစေနိုင်ခဲသော သတ္တဝါ၊ တမလွန်လောက၌ ဘေးကို ရှုလေ့ရှိသော သတ္တဝါတို့ကို မြင်တော်မူ၏။ ထိုသို့ မြင်တော်မူသဖြင့် 'ဗြဟ္မာကြီး၊ သတ္တဝါတို့အတွက် အမြိုက်နိဗ္ဗာန် တံခါးကို ငါဖွင့်အံ့'ဟု တရားဟောရန် သည်းခံ ခွင့်ပြုတော်မူလေသည်။ ထိုအခါမှ သဟမ္ပတိဗြဟ္မာကြီးသည် မြတ်စွာဘုရားအား ဝမ်းမြောက်စွာ ရှိခိုး၍ လက်ျာရစ်လှည့်ကာ ဗြဟ္မာပြည်သို့ ပြန်ကြွလေသည်။

သဟမ္ပတိဗြဟ္မာကြီး၏ တောင်းပန်ချက်ကို ဝန်ခံတော်မူပြီးသည်မှစ၍ မြတ်စွာဘုရားသခင်သည် မည်သူ့အား ငါ့တရားကို ရှေးဦးစွာ ဟောရပါအံ့နည်းဟု ကြံတော်မူကာ ပဥ္စဝဂ္ဂီတို့ရှိရာ မိဂဒါဝုန်တောသို့ ကြွတော်မူ၍ ဓမ္မစကြာတရားဦးကို ဟောတော်မူသည်။ (ပဥ္စဝဂ္ဂီ။ ဓမ္မစကြာသုတ္တန် — ရှု။)

**သာချင်း။** ။သာချင်း ဟူသော အဖွဲ့သည် ဟောစာနှင့် ခပ်ဆင်ဆင် တူသည်။ သာချင်း မပေါ်မီက ဟောစာများ ပေါ်ပေါက်၏။ နောက် တဖြည်းဖြည်း ဟောစာများကို သာယာ ချောင်စွာ တမျိုးတမည် ပြောင်းလွဲ ဖွဲ့ဆိုကြ

ကာ သာချင်းဟု အမည်ပေးကြဟန်တူသည်။ သာချင်းစပ်ဆိုရာ၌ စာဆိုသူ လက်ထက် မတိုင်မီ ဖြစ်ပေါ်သော အကြောင်းအရာများကိုရင်း၊ ဇာတ်ဝတ္ထုများကိုရင်း ဖွဲ့ဆိုလေ့ရှိကြလေသည်။ စပ်ဆိုပုံမှာ လေးလုံးတပိုဒ်၊ သို့မဟုတ် ငါးလုံးတပိုဒ်၊ သို့မဟုတ် ခြောက်လုံးတပိုဒ်ထား၍ ရေးစပ်နိုင်သည်။ ရကန်စပ်ပုံ စပ်နည်းနှင့်လည်း အနည်းငယ် ဆင်တူလေသည်။

‘ဆင်ဖြူ နာဂ၊ ဆဒ္ဒန္တလည်း၊ နတ်သစက်အောက်၊ လစဉ်ရောက်၍၊ နတ်လောက်ကညာ။ ။တိုင်းအတည်တည်၊ ပြည်အစိုးစိုး၊ ထီးတိုင်းတို့က၊ ဆက်ပို့နိယံ၊ သစ္စာခံ၍၊ ကျွန်ခံလာသည်၊ ရတနာပူရ၊ သားတော်မြေးမြစ်၊ ညွန့်သစ်စည်ပင်၊ ရာဇဝင်အခေါင်၊ တပေါင်ကြွေးဟစ်၊ ထွန်းရာဖြစ်သည်၊ အောက်သေဋ္ဌာ၊ ရွှေပြည်ဝကြီး’ စသည်ဖြင့် ကာရန် အအုပ်အခံ ကန်၍ သွားလေ့သည်။ ကာရန် ကန်ရိုးမက ရကန်၌ကဲ့သို့ပင် အခြား ဆရာများကို ကန်ပုံရန်ပျိုးပုံလည်း ဆင်ဆင်တူသည်။ သို့သော် ရကန်ဟူသော အဖွဲ့အနွဲ့သည် သာချင်းများ ပေါ်ပြီးနောက်မှ ပေါ်ပေါက်လာသောကြောင့် သာချင်းသည် ရကန်၏ ရှေ့တော်ပြေးဖြစ်ကြောင်း ထင်ရှားသည်။

သာချင်း ဟူသော အဖွဲ့အနွဲ့ကို ရှေးဦးစွာ တီထွင်သူမှာ မင်းဇေယျရန္တမိတ်ဘွဲ့ခံ တောင်ခွင်မြို့စား ဦးသာအောင် ဖြစ်လေသည်။ (မင်းဇေယျရန္တမိတ် — လည်းရှု။) ဦးသာအောင်သည် ဥတေန သာချင်း၊ ပဋ္ဌာစာရီ သာချင်းနှင့် စိဉ္စမာဏဝိကာ သာချင်းတို့ကို ရေးသားခဲ့၏။ ရှေးကလည်း သာချင်းနှင့် ဆင်တူသော အဖွဲ့မျိုး ရှိတန်ရာ၏။ သို့သော် ဦးသာအောင်၏ သာချင်းသည် တွေ့ရသမျှသော သာချင်းများတွင် အကောင်းဆုံး ဖြစ်လေသည်။ နန်းစဉ် စာတော်စာရင်းအရ စာပေလောကတွင် ထင်ရှားလှသော သာချင်းများကား ဦးအောင်ဖြိုး ရေးသားသော ရာမ သာချင်း၊ ကျန်စစ်သား ကြုတ်ဖွင့်ခန်း သာချင်း၊ နော်ရထာစောတရုပ်ပြည်မှ စွယ်တော်ပင့်ခန်း သာချင်း၊ ဗောဓိပင်ကို မာရ်နတ်မင်းလုခန်း သာချင်း၊ မင်းဆက်ရာဇဝင် သာချင်း၊ မောင်ချင်းဖြူ အမည်ခံ စာဆိုတဦး ဖွဲ့ဆိုသော ကျန်စစ်သား သာချင်းနှင့် ပုဂံငှက်ကြီး သာချင်း၊ ရေပုပ်ကျောင်းတကာဆို ယသောဓရာ ကန်တော့ခန်း သာချင်း၊ ဝိဓူရသာချင်း၊ တောထွက်ခန်း သာချင်း၊ နှစ်ကျိပ်ရှစ်ဆူ သာချင်းနှင့် မရဏာသန္န သာချင်းတို့ဖြစ်၏။

**သာဂူ။** ။သာဂူသည် အာဒါလွတ်ဥ၊ ပီလောပီနံ့ဥတို့ကဲ့သို့ ကော်မှုန့်ပါသော အာဟာရတမျိုးဖြစ်၍ အစာကြေလွယ်ပြီးလျှင် ကျန်းမာရေးနှင့် ညီညွတ်စေသည်။ ထိုကြောင့် မကျန်းမမာဖြစ်နေသူများ၊ လူနာများအတွက် သင့်လျော်သော အစာတမျိုး ဖြစ်သည်။ လူနာများအတွက် သာဂူကို ကျိုပြီးလျှင် နွားနို့နှင့် ရော၍ တိုက်ကျွေးကြသည်။ အချို့ကမူ နွားနို့မရောပဲ သံပရာရည် ညှစ်ထည့်၍ တိုက်ကျွေးကြသည်။ သကြား၊ အုန်းနို့တို့နှင့် ရော၍ ကျိုထားသော သာဂူသည် အလွန်အရသာရှိသော အချိုပွဲ အစားအစာ တမျိုးဖြစ်လေသည်။ ထို့ပြင် သာဂူကို သကြား၊ အုန်းနို့တို့ဖြင့် ရွှေကြည်ကဲ့သို့ မုံ့လုပ်၍ရင်း၊ သာဂူပျဉ်မုံ့လုပ်၍ရင်း မြန်မာလူမျိုးတို့ စားသုံးကြလေသေးသည်။

သာဂူဟု ခေါ်ဝေါ်ကြသော သာဂူစေ့များကို သာဂူပင်ဟု ခေါ်ဝေါ်ကြသော ထန်းမျိုးဝင် အပင်များမှ ထုတ်လုပ်ရရှိသည်။ သာဂူပင်မျိုးတို့သည် ကမ္ဘာ့ အပူပိုင်းဒေသနိုင်ငံများ၌ ပေါက်ရောက်ကြသည်။ ထန်းပင်မျိုးဖြစ်သဖြင့် ပါလမေစီအီး မျိုးရင်းတွင် ပါဝင်ပြီးလျှင် အမျိုးအစားကောင်းသော သာဂူစေ့ အများအပြား ထုတ်လုပ်ရရှိသည့် သာဂူပင်မျိုးစိတ်တို့၏ရုက္ခဗေဒအမည်တို့မှာ မီထရော့ဆီလွန် ရမ်ဖီယိုင်၊ မီထရော့ဆီလွန် ဆာဂူနှင့် မီထရော့ဆီလွန် လီဗီတို့ ဖြစ်ကြလေသည်။

ထိုအပင်မျိုးတို့သည် ရွှံ့နွံမြေ နုံးမြေ မြေပျော့များ၌ ရှင်သန်ဖြစ်ထွန်းသည်။ အရှေ့အိန္ဒိယ ကျွန်းစု၌ မူလပေါက်ရောက်၍ ထိုဒေသများ၌ အများအပြား စိုက်ပျိုးကြသည်။ အထူးသဖြင့် ဗော်နီယိုကျွန်းရှိ ဆရားဝပ်နယ်တွင် အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်သည်။ ထိုသာဂူပင်မျိုးတို့ကို အစေ့မှရင်း၊ သားတက်မှရင်း အပင်ပျိုး၍ စိုက်ပျိုးရသည်။

သာဂူပင်မျိုးတို့သည် အမြင့် ပေ ၃၀ ထက်မကျော်ချေ။ ပင်စည်သည် တုတ်ခိုင်တောင့်တင်းသည်။ အခေါက်သည် နှစ်လက်မခန့် ထူ၍ ဝါးကဲ့သို့ မာကျောသည်။ သို့သော် အလယ်အူသည် ပျော့ဖတ်ဖတ်ဖြစ်၍ ကစီအနှစ်များ ပါဝင်သည်။ ကျွန်ုပ်တို့ စားသုံးကြသော သာဂူစေ့များကို ထိုအလယ်အူအသားမှ ထုတ်လုပ်ခြင်း ဖြစ်လေသည်။ အရှေ့အိန္ဒိယကျွန်းစုတွင် သာဂူ ထုတ်လုပ်ရေးသည် အဓိက လုပ်ငန်းတရပ် ဖြစ်သည်။ ဗော်နီယိုကျွန်းမှ ဥရောပနိုင်ငံများသို့ သာဂူစေ့အများဆုံး တင်ပို့လေသည်။

သာဂူပင်တို့သည် တသက်တွင် တခါသာအပွင့်ပွင့်သည်။ အပင်သက် ၁၅ နှစ်ခန့်ရှိလာလျှင် အပွင့် ပွင့်၍ အသီး သီးသည်။ အသီး သီးသည့်တိုင်အောင် ထားလျှင် အပင်၏ အလယ်အူရှိ ကစီနှစ်များ ခန်းခြောက်၍ အူဟောင်းလောင်းဖြစ်ကာ အပင်သေသွားသည်။ ထို့ကြောင့် ထို အခြေအနေမျိုးသို့ မရောက်စေရန် အပင်သက် ၁၅ နှစ်ခန့်ရှိ၍ အပွင့်ပွင့်တော့မည့် အခြေရှိလာလျှင် သာဂူထုတ်လုပ်နိုင်ရန် အပင်ကို ခုတ်လှဲ ပစ်ရသည်။ ထိုအချိန်သည် အလယ်အူ၌ ကစီနှစ်အများဆုံးရှိသော အချိန်လည်း ဖြစ်ပေသည်။ အပင်တပင်လျှင် သာဂူအချိန် ပေါင် ၇၀၀ ခန့်ရနိုင်လေသည်။

ခုတ်လှဲချသော အပင်ကို အပိုင်းပိုင်း ဖြတ်၍ ခွဲခြမ်းပြီးလျှင် အလယ်အူသားကို ထုတ်ယူရသည်။ အလယ်အူသားကို သေးငယ်သော အစိတ်အပိုင်းဖြစ်အောင် ကြိတ်ပြီးလျှင် ရေနှင့် သမ၍ အနှစ်ကို အဝတ်ပိုင်းတခုနှင့်ဖြစ်စေ၊ ဆန်ခါနှင့်ဖြစ်စေ စစ်ယူရသည်။ထိုအခါ အဝတ်ပိုင်းထဲတွင် အဖတ်များ အမှုန်များသာ ကျန်ခဲ့၍ အနှစ်ရည်များသည် လက်ခံခွက်၊ သို့မဟုတ် ဇလားထဲသို့ ကျကုန်သည်။ လက်ခံခွက်ထဲရှိ ကစီနှစ်များ အနယ်ထိုင်လာသောအခါ နှစ်ကြိမ်သုံးကြိမ်မျှ ရေလဲပေးပြီးနောက် ရေစစ်သွားအောင် ပြုလုပ်ပေးရသည်။ ရေစစ်ပြီးသော အနှစ်ဖတ်များကို တိုင်းရင်းသားတို့သည် အခြောက်လှန်း၍ မှုံ့ပြုလုပ် စားသုံးကြသည်။ ဟင်းချိုရည်တွင် ထိုအမှုန့်ကို ခတ်၍လည်း စားသုံးကြလေသည်။

သာဂူစေ့ ပြုလုပ်ပုံမှာမူ ထိုမှုံ့နှစ်ပျစ်ပျစ်ကို ဆန်ခါဖြင့် တဖန် တိုက်ချသောအခါ ဆန်ခါပေါက်၏ အကျဉ်းအကျယ်ကို လိုက်၍ နံနံစေ့အရွယ်မှ သေနတ်ကျည်စေ့ကလေးများအရွယ်အထိ အလုံးအနေ အစားစား သာဂူစေ့များဖြစ်ပေါ်လာသည်။ သာဂူစေ့များ၏ ပင်ကိုယ်အရောင်သည် ညိုတိုတိုဖြစ်သော်လည်း ရောင်းပန်းလှလေအောင် အရောင်ချွတ်ပစ်ကြသဖြင့် ပုလဲလုံးကလေးများပမာ ဖြူနုသော သာဂူစေ့များဖြစ်လာကြသည်။

သာဂူစေ့ အညံ့စားများကို ထန်းမျိုးဖြစ်သော မင်းပေါမျိုးစိတ်၊ ပေပင်မျိုးစိတ်နှင့် စွန်ပလွံမျိုးစိတ်ဝင် အချို့အပင်မျိုးများမှလည်း ထုတ်ယူရရှိနိုင်သည်။ မြန်မာနိုင်ငံ တောင်ပိုင်း ပဲခူး၊ကျိုက္ခမီ၊ သံလွင်၊ မြိတ် စသော နယ်များအတွင်း၌ ပေါက်ရောက်သော တောင်အုန်း (အရင်ဂါ ဆက္ကရာဖာရာ)ဟု ခေါ်ကြသည့် အပင်များသည် မလ္လာယု သာဂူပင်များ ဖြစ်ကြ၍ သာဂူစေ့ အညံ့စားကို ထုတ်ယူ ရရှိနိုင်လေသည်။

ဥရောပ နိုင်ငံများတွင် ဝိတ် ရော့ဗင်ဟု ခေါ်သော အပင်၏ ဥတက်များ၊ မုန်တိုင်ပင်မျိုး၏ အမြစ်များမှ သာဂူစေ့ အညံ့စားကို ထုတ်လုပ်ကြလေသည်။

**သာစည်မြို့။** ။သာစည်မြို့သည် မြန်မာနိုင်ငံ အလယ်ပိုင်း၊ မန္တလေးတိုင်းအတွင်းရှိ အရေးပါသော မီးရထားလမ်းဆုံမြို့ဖြစ်သည်။ မိတ္ထီလာခရိုင်၏အရှေ့တောင်ပိုင်း ခရိုင်ခွဲဖြစ်သော သာစည်ခရိုင်၏ ခရိုင်ခွဲရုံးစိုက်မြို့လည်းဖြစ်သည်။ သာစည်ခရိုင်ခွဲအတွင်း၌ သာစည်မြို့နယ်နှင့် ဝမ်းတွင်းမြို့နယ်တို့ ပါဝင်လေသည်။

သာစည်မြို့သည် ရန်ကုန်–မန္တလေး မီးရထားလမ်း၊သာစည်–မြင်းခြံ မီးရထားလမ်း၊ သာစည်–ရွှေညောင် မီးရထားလမ်းတို့ ဆုံရာဖြစ်သည့်ပြင်၊ ရန်ကုန်–မန္တလေး မော်တော်ကား လမ်းမကြီးသည်၎င်း၊ မိတ္ထီလာမှ ရှမ်းပြည်တောင်ပိုင်းကို ဖြတ်၍ ယိုးဒယားနယ်စပ် အရောက်သွားနိုင်သော မော်တော်ကား လမ်းမကြီးသည်၎င်း သာစည်မြို့ကို ဖြတ်သန်းသွားရလေသည်။

ထိုမြို့သည် မိတ္ထီလာမြို့မှ အရှေ့ဖက် ၁၃ မိုင် ကွာဝေးသည်။ မီးရထားလမ်းအတိုင်း မန္တလေးမြို့မှ မိုင် ၈၀ ကွာဝေး၍ ရန်ကုန်မြို့မှ ၃၀၆ မိုင် ကွာဝေးသည်။ မြို့နယ်၏ နယ်နိမိတ်တို့သည် အရှေ့ဖက်တွင် ရှမ်းပြည်မှ သမခန်းနယ်၊ ကျုံးနယ်၊ ပွေးလှနယ်တို့နှင့်၎င်း၊ တောင်ဖက်တွင် ရမည်းသင်းခရိုင်နှင့်၎င်း၊ မြောက်ဖက်တွင် ကျောက်ဆည်ခရိုင်ခွဲနှင့်၎င်း၊ အနောက်ဖက်တွင် မိတ္ထီလာမြို့နယ်နှင့်၎င်း ဆက်စပ်လျက်ရှိသည်။

သာစည်မြို့၏ တည်ရာအရပ်သည် ပင်လယ်ရေပြင်မှ ပေ ၆,၀၀ ကျော်အထက်တွင် တည်ရှိလျက် ရွှေမင်းဝံတောင်ရိုးတောင်တန်းအဆက် တနေရာတွင် ရှိသည်။ မြို့နယ်၏ အနောက်ဖက်ပိုင်းသည် မြေပြန့်ဖြစ်သော်လည်း အရှေ့ပိုင်းသည် တောင်ခြေရင်းသို့ တဖြည်းဖြည်း မြင့်တက်သွားလေသည်။ မြို့နယ်၏ အကျယ်အဝန်းသည် ၇၆၈ စတုရန်းမိုင်ဖြစ်၍ ၁၉၇၁ခုနှစ် သန်းကောင်စာရင်းအရလူဦးရေ ၂၅,၀၀၀ ကျော်ရှိလေသည်။ သာစည်မြို့နယ်တွင် ကျေးရွာပေါင်း ၁၆၉ ရွာ ပါဝင်သည်။ သာစည်မြို့မသည် တမိုင်ပတ်လည် ကျယ်ဝန်းလေသည်။ မြို့နယ်အတွင်း၌၎င်း၊ မြို့ပေါ်၌၎င်း လူအများစုသည် ဗုဒ္ဓဝါဒီ မြန်မာလူမျိုးများဖြစ်ကြသည်။ မြို့နယ်၏ အရှေ့ဖက်ပိုင်းတွင် ဓနုလူမျိုး အဆက်အနွယ်များကို တွေ့ရသည်။ ထိုပြင် မင်းတုန်းမင်း လက်ထက်က ရှိခဲ့သော မှတ်စလင်တပ်စု တစု၏ အဆက်အနွယ်များမှ ဆင်းသက် ပေါက်ပွားခဲ့သော မြန်မာမှတ်စလင် အများအပြားကိုလည်း မြို့နယ်အတွင်း၌ တွေ့ရှိရလေသည်။

သာစည်မြို့သည်ခရီးလမ်းဆုံကျသဖြင့် အရောင်းအဝယ်ကောင်းသည်။ နေ့စဉ် ဈေးရှိသည့်ပြင် မြို့နယ်၏ အရပ်ရပ်မှ ဈေးသည် ကုန်သည်တို့ ကုန်မျိုးစုံလာရောက်ရောင်းချသော ငါးရက်ဘဈေးသည်း ရှိသည်။ ထိုကြောင့် မြို့ပေါ်ရှိ လူအများစုသည် ကုန်သွယ်စီးပွားရေးသမားများ ဖြစ်ကြသည်။ ထိုပြင် မီးရထားလမ်းဆုံဖြစ်သဖြင့် မီးရထား အလုပ်သမား ၁,၀၀၀ ကျော် မှီတင်းနေထိုင်သောအလုပ်သမားမြို့တမြို့လည်း ဖြစ်ပေသည်။

မြို့နယ်အတွင်း၌မူ လယ်ယာစိုက်ပျိုးရေးသည် အဓိကလုပ်ငန်းဖြစ်၍ ဆန်စပါးအပြင် နှမ်း၊ ပဲ၊ ပြောင်း၊ ငရုတ် စသော မိုးပါးရေရှားရပ်ဝန်း၏ အသီးအနှံများကို စိုက်ပျိုးလုပ်ကိုင်ကြသည်။စိုက်ပျိုးလုပ်ကိုင်ရန် မိုးရေရှားပါးသဖြင့် မိတ္ထီလာကန်တော်ကြီး၊ မင်းလှကန်နှင့်ညောင်ရမ်းကန်ကြီးတို့ကို အားကိုးအားထား ပြုကြရသည်။ ရှမ်းပြည်ဖက်မှ

ရင်း၊ အောက်ဖက်မှရင်း လာသောသစ်များနှင့် ဆက်သွယ်လုပ်ကိုင်သည့် သစ်လုပ်ငန်းများလည်းရှိ၍ သာစည်မြို့နှင့် အနီးအနားတွင် သစ်စက်များရှိလေသည်။

သာစည်မြို့သည် မြန်မာမင်းများ လက်ထက်အခါက အိမ်ခြေ ၁၅ အိမ်ခန့်မျှသာ ရှိသော မထင်မရှားသည့် ရွာငယ်တရွာမျှသာ ဖြစ်သည်။ သို့တိုင်အောင် ထိုခေတ်အခါကပင် ရှမ်းပြည် တောင်ပိုင်းနှင့် မြေပြန့်ဒေသတို့ အရောင်းအဝယ် ကူးလူး ဆက်ဆံရေးတွင် ကွန်းခို၊ ကွန်း ထောက်စခန်း ဖြစ်ခဲ့လေသည်။

ဗြိတိသျှတို့ အထက်မြန်မာနိုင်ငံကိုသိမ်းပိုက်သည့်အချိန်တွင် သာစည်မြို့ ဖြစ်လာမည့်အရပ်တွင် အိမ်ခြေစု သုံးစု ကွဲလျက် ရှိသည်။ ယခု သာစည်မြို့၏ အရှေ့ပိုင်းရပ်ကွက်သည် ထိုစဉ်က အိမ်ခြေ ၁၅ အိမ်ခန့်မျှသာ ရှိသော ကျွဲလည်ပင်းအရပ်ဟု ခေါ်၍ တဝဂူ ဟု ခေါ်ကြသော စေတီယ်ဟောင်းတဆူရှိသည်။ ထိုအရပ်မှ အနောက်ဖက် နှစ်ဖာလုံခန့်အကွာ ယခု သာစည်ဈေး၏ အရှေ့ဖက် မိတ္ထီလာသွား မီးရထားလမ်း တဝိုက်တွင် အိမ်ခြေ ၁၅၊ ၂၀ ခန့် ရှိ၍ သာစည်ရွာလေးဟု ခေါ်သော အိမ်ခြေစုတစု ရှိသည်။ယခု မြို့၏အနောက်ပိုင်း ထိန်ကန်ရပ်ကွက်ဘွင် အိမ်ခြေ ၁၀ အိမ်ခန့်ဖြင့် အစုကလေးတစု ရှိပြန်လေသည်။

ဗြိတိသျှ အစိုးရသည် ၁၈၈၆–၈၇ ခုနှစ်တွင် ရှမ်းပြည် တောင်ပိုင်းသွား လမ်းကိုင်း၊ ၁၈၈၈ ခုနှစ်တွင် တောင်ငူမှ မန္တလေးသို့ မီးရထားလမ်းကိုင်း ဖောက်လုပ်ရာ သာစည်မြို့ တည်မည့်နေရာသည် လမ်းဆုံကျ၍ နေလေသည်။ ထို့ကြောင့် ထိုစဉ်က မိတ္ထီလာခရိုင်ဝန် မစ္စတာဂေယာသည် အိမ်ခြေသုံးစုကွဲနေသော သာစည်မြို့ ဖြစ်လာမည့်အရပ်ကို စုစည်း၍ မြို့တည်ရန် မြန်မာမင်းလက်ထက်တွင် အမှုတော်ထမ်းရွက်ခဲ့ကြသော မြန်မာမှူးကြီးမတ်ကြီးများနှင့်တိုင်ပင်ဆောင်ရွက်သည်။

မြန်မာသက္ကရာဇ် ၁၂၅၃ ခုနှစ်တွင် ဆိုခဲ့သော ရွာသုံးရွာကို စုပေါင်းပြီးလျှင် သီပေါမင်း၏ ဖိနပ်တော်ကိုင် ဖြစ်ခဲ့သူ ဦးသာဒွန်းကို မြို့ပိုင်ခန့်၍ အုပ်ချုပ်စေသည်။ဗြိတိသျှ အစိုးရအား ထောင်ထား ခြားနားခဲ့သော်လည်း နောင်တွင် လက်နက်ချခဲ့သူ ဆံမြိတ်ရှည်မောင်ကြီးသည် ပုလိပ် အင်စပက်တော်အဖြစ် အမှုထမ်းရသည်။ ၁၂၅၄ ခုနှစ်တွင် မစ္စတာဂေယာသည် မြန်မာတပ်မတော်သားဟောင်းတဦး ဖြစ်သူ ဦးမြိုင်အား မြို့သူကြီးခန့်၍ လမ်းများ၊ ရပ်ကွက်များကို စံနစ်တကျ အကွက်ရိုက်စေလေသည်။

မူလ ရွာသုံးရွာအနက်မှ သာစည်ရွာကလေးသည် မိတ္ထီလာ–မြင်းခြံ မီးရထားလမ်းဖောက်မည့် နေရာနှင့် မလွတ်သဖြင့် ရွာ၏အိမ်ခြေစုကို မြို့တောင်ပိုင်းကုန်းနေရာသို့ ရွှေ့ပြောင်းပေး၍ ထိုနေရာကို သာယာကုန်းဟု ခေါ်တွင်စေသည်။ မြို့ကွက်ရိုက်ပြီးနောက် လမ်းဖောက်ပြီးသော် မြို့အမည်မှည့်ရန် တိုင်ပင်ကြသည်။ မြန်မာသက္ကရာဇ် ၁၂၄၆ ခုနှစ်ခန့်ကပင် ကျွဲလည်ပင်းရပ်ရှိ တဝဂူစေတီယ်နှင့် စပ်လျဉ်း၍ တပေါင်တရပ် ပေါ်ခဲ့လေသည်။ ထိုတပေါင်မှာ "နှံပဲရွှေထီး၊ ထွန်တုံးလောက်ကြီး၊ သာစည်မြို့ကြီး စည်လတ္တံ့" ဟူသတည်း။ထိုစဉ်က တဝဂူစေတီတွင် သံထီးတော်မရှိ၊စေတီတော်၏ ပိန္နဲတိုင်နေရာမှ နှံပဲပင် ပေါက်ရောက်နေရာ နှံပဲပင်၏ အကိုင်းအခက်များသည် စေတီတော်အား ထီးသဖွယ် ဖြန့်မိုးလျက်ရှိသည်။ ထိုနှံပဲပင်၏ ပင်စည်ပင်လုံးသည် ထွန်တုံးခန့်ရှိလာလျှင် ထိုအရပ်ရှိ မြို့သည် သာယာဖွံ့ဖြိုးလာမည်ဟု ရှေးလူကြီးသူမတို့ ယူဆခဲ့ကြလေသည်။

ယင်းသို့ မြို့၏အမည်နာမကို စဉ်းစားကြရာ ထိုအတိတ်တပေါင်ပေါ်ခဲ့ခြင်းကို အကြောင်းပြု၍ မြို့ကွက်ရိုက်သောအခါက မြို့အလယ်ဗဟိုကျနေသော သာစည်ရွာကလေး၏ အမည်ကို ယူပြီးလျှင် သာစည်မြို့ဟု ခေါ်တွင်ခဲ့လေသည်။

မြို့၏တည်နေရာသည် ကူးလူးသွားလာရေး အဆင်ပြေသဖြင့် မြို့၏အခြေအနေသည် တစတစ တိုးတက်လာလေသည်။ သာစည်မှ ရှမ်းပြည် တောင်ပိုင်းသို့ လမ်းကောင်းပေါက်သည့်ပြင် ၁၈၈၈ ခုနှစ်တွင် တောင်ငူမှ မန္တလေးသို့ မီးရထားလမ်း ဆက်၍ဖောက်ရာ သာစည်ကို ဖြတ်ကျော်သွားရသည်။ ၁၈၉၃ ခုနှစ်တွင် မီးရထားလမ်းတိုးချဲ့၍ မြင်းခြံသို့ လမ်းဖောက်ပြန်ရာ သာစည်သည် အရေးပါသော မီးရထားလမ်းဆုံမြို့ ဖြစ်လာလေသည်။

မြို့တည်ပြီးသောအခါ တဝဂူ စေတီတော်ဟောင်းကို မြို့သူကြီး ဦးမြိုင်က ကြီးမှူး၍ ရှိရင်းစွဲ ဥဏ်တော် ခုနစ်တောင်မှ သံတောင် ၃၀ အထိ မြှင့်၍ ပြုပြင်မွမ်းမံပြီးလျှင် နှံပဲရွှေထီး စေတီတော်ဟု ခေါ်ဝေါ် သမုတ်ခဲ့ကြရာ ယခုထက်တိုင် သာစည်မြို့ထိပ် ရန်ကုန်–မန္တလေး မီးရထားလမ်း၏ အရှေ့ဖက်၊ရှမ်းပြည်သွား မော်တော်ကားလမ်း၏ တောင်ဖက်တွင် ကြည်ညိုဖွယ်ရာ ဖူးတွေ့နိုင်ပေသည်။

သာစည်မြို့နယ်အတွင်း အခြား ထင်ရှားသော စေတီတော်တဆူမှာ သာစည်မြို့၏ အနောက်မြောက်ဖက် သုံးမိုင်ကွာတွင်ရှိသော ရွှေယဉ်မြှော်စေတီ ဖြစ်ပေသည်။

သာစည်မြို့သည် ခရိုင်ခွဲရုံးစိုက်မြို့ ဖြစ်သည့်အားလျော်စွာ နယ်ပိုင် မြို့ပိုင်နှင့် တရားမ တရားသူကြီးတို့၏ တရားရုံးများ၊ ပြည်သူ့ရဲတပ်ဖွဲ့စခန်း၊ ဒေသန္တရအုပ်ချုပ်ရေးအဖွဲ့ရုံး၊ သစ်တောရုံး၊ စိုက်ပျိုးရေးရုံး၊ ပညာအုပ်ရုံး၊ အစိုးရ အထက်တန်းကျောင်း၊ အလယ်တန်းကျောင်းနှင့် မူလတန်းကျောင်း စသည့်အဆောက်အအုံများ ရှိသည့်အပြင် အရေးပါသော မီးရထားလမ်းဆုံမြို့ ဖြစ်သဖြင့် မီးရထားဌာန အဆောက်အအုံများလည်း အများအပြားရှိလေသည်။

မော်တော်ကားလမ်းဆုံ မီးရထားလမ်းဆုံ ဖြစ်သဖြင့်

သာစည်မြို့သည် မြို့နယ်အတွင်းနှင့် မြို့နယ်အပသို့ ကူးလူး ဆက်ဆံရေးတွင် အဆင်ပြေပြေ သွားလာ ဆောင်ရွက်နိုင်သော မြို့တမြို့ ဖြစ်ပေသည်။

**သာဒိုးလူမျိုး**။ ။ချင်းလူမျိုး — ရှု။

**သာပေါင်းမြို့**။ ။ဧရာဝတီတိုင်း ပုသိမ်ခရိုင် အတွင်း၌ တည်ရှိသော သာပေါင်းမြို့သည် ငဝန် (ပုသိမ်) မြစ်၏ လက်ယာဖက်ကမ်းပေါ်၌ တည်ရှိသည်။ ပုသိမ်မြို့မှ မြောက်ဖက်သို့ ရေလမ်းခရီးအားဖြင့် ၂၅ မိုင်ဝေးကွာသည်။ ပုသိမ်မြို့နှင့် ငသိုင်းချောင်းမြို့ အကြား ငဝန်မြစ်ကမ်းပေါ်ရှိ သင်္ဘောဆိပ်မြို့ တမြို့ဖြစ်လေသည်။

သာပေါင်းမြို့ဟု ခေါ်တွင်ခြင်းမှာ ရှေးအခါက သာပေါင်းမြို့တည်ရာအရပ်သည် ရခိုင်ရိုးမတောင်ခြေနှင့် နီးကပ်သဖြင့် တောသားကောင်များ စုပေါင်းနေကြသည်ကို အစွဲပြု၍ သားပေါင်းဟု ခေါ်တွင်ရာမှ သာပေါင်းဟု ရွေ့လျော လာသည်ဟု ဆိုသည်။ ထိုပြင် သာပေါင်းမြို့ အနီးတဝိုက်၌ နေထိုင်ကြသော ကရင်အမျိုးသားများ၏ အလိုအရမူ ကရင်ဘာသာဖြင့် သော်ပိုးဟု ခေါ်တွင်ရာမှ သာပေါင်းဟု ဖြစ်လာသည် ဆိုလေသည်။

သာပေါင်းမြို့၏အကျယ်အဝန်းသည် အလျားတမိုင်ခွဲ အနံ မိုင်ဝက်ခန့် ရှိသည်။ မြို့ပေါ်တွင် လူဦးရေ အများစုသည် ဗုဒ္ဓဝါဒီ မြန်မာလူမျိုးများဖြစ်၍ ကရင်လူမျိုးများသည် ဒုတိယ အများစုဖြစ်သည်။ သာပေါင်း မြို့နယ်၏ မြို့ပိုင်ရုံးစိုက်မြို့ ဖြစ်၍ မြို့ပိုင်နှင့် မြို့နယ် ရာဇဝတ် တရားသူကြီးတို့၏ ရုံးများရှိသည်။ ဒေသန္တရအုပ်ချုပ်ရေးအဖွဲ့ရုံး၊ ပြည်သူ့ရဲတပ်ဖွဲ့စခန်း၊ ဆေးရုံစသော အဆောက်အအုံများ အပြင် မူလတန်းကျောင်းမှ အထက်တန်းကျောင်းအထိ ကျောင်းသုံးကျောင်းရှိသည်။ မြို့ပေါ်ရှိ ထင်ရှားသော သာသနိက အဆောက်အအုံမှာ အလွန်ရှေးကျသော မင်းကျောင်းခေါ် ဘုန်းကြီးကျောင်း ဖြစ်လေသည်။

သာပေါင်းမြို့နယ်သည် ပုသိမ်ခရိုင်၏ အနောက်မြောက်ဖက်ပိုင်းကျသည်။ အနောက်ဖက်၌ ဗင်္ဂလားပင်လယ်အော်၊ အရှေ့ဖက်နှင့် အရှေ့မြောက်ဖက်တွင် ကျောင်းကုန်းမြို့နယ် နှင့် ကျုံပျော်မြို့နယ်၊ အနောက်မြောက်ဖက်နှင့် မြောက်ဖက်တို့တွင် ရခိုင်တိုင်းမှ သံတွဲခရိုင်နှင့် ပုသိမ်ခရိုင်၏ ငသိုင်းချောင်းမြို့နယ်ခွဲ၊ တောင်ဖက်တွင် ပုသိမ်မြို့နယ်တို့ဖြင့် ဝန်းရံလျက်ရှိသည်။

မြို့နယ်၏ အနောက်ပိုင်းတွင် ရခိုင်ရိုးမမှ တောင်စွယ်တောင်ထွတ်တို့သည် မြောက်ဖက်မှ ရှက်ဖြာ ထိုးဝင်နေကြသဖြင့် မြေမျက်နှာပြင် မညီမညာရှိသည်။ သာပေါင်းမြို့တည်ရာ အရှေ့ဖက်ခြမ်းမှာမူ မြေညီမြေနိမ့်ဒေသ ဖြစ်လေသည်။ မြို့နယ်အတွင်း မြေနိမ့်ပိုင်းတွင် ဆန်စပါး စိုက်ပျိုးရေးကို အဓိက လုပ်ကိုင်ကြ၍ မြို့နယ်အတွင်း၌ ဆန်စက်များရှိသည်။ မြေပဲစိုက်ပျိုးရေးနှင့်ကိုင်းလုပ်ငန်း၊ အင်းလုပ်ငန်းများကိုလည်း လုပ်ကိုင်ကြသည်။ ကျန်ဒေသများတွင် ကြိုးဝိုင်းသစ်တောနှင့် ကြိုးဝိုင်းအပ သစ်တောများ ရှိ၍ သစ်ဝါးစသော သစ်တောထွက် ပစ္စည်းများသည်လည်း မြို့နယ်၏ ထွက်ကုန်များ ဖြစ်ကြသည်။

သာပေါင်းမြို့နယ်အတွင်း ဘုရားကုန်းရွာ၊ ဘုရားဦးပေါက်ရွာ၊ ဘုရားနီ အုတ်ရှစ်စသော ရွာကြီးများတွင် အလွန် ရှေးကျသော စေတီပုထိုးပျက်ကြီးများ ရှိသည်။ သို့သော် သုတေသနပြုသူများ မရှိသေးချေ။ မြို့နယ်အတွင်း ထင်ရှားသော ပွဲတော်သည် သာပေါင်းမြို့နှင့် ခုနစ်မိုင်ကွာ ရခိုင် ရိုးမတောင်စွယ်ရှိ တောင်ညို ဘုရားပွဲတော် ဖြစ်၍ နှစ်စဉ်နှစ်တိုင်း တန်ခူးလ၌ စည်ကားစွာ ကျင်းပလေသည်။

သာပေါင်းမြို့နယ်၏အကျယ်အဝန်းသည် ၇၇၁ စတုရန်းမိုင်ဖြစ်၍ ကျေးရွာအုပ်စု ၇၁ ခု ပါဝင်သည်။ ၁၉၇၁ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရ လူဦးရေ ၁၀၇,၀၀၀ ယောက်ဖြစ်သည်။ ဗုဒ္ဓဝါဒီ မြန်မာလူမျိုးသည် အများဆုံးဖြစ်၍ ကရင်လူမျိုးတို့သည် ဒုတိယ အများဆုံး ဖြစ်သည်။ နိုင်ငံခြားသား တရုပ် ကုလား အနည်းအကျဉ်းမျှ ရှိသည်။

မြို့နယ်အတွင်း ကူးသန်းသွားလာရေးအတွက် ငဝန်မြစ်နှင့် အခြား ချောင်းကြီးချောင်းငယ်များကို အသုံးပြုကြလေသည်။

**သာဗင်တေး, ဆာ အာဗေးသရာ မိဂယ် သေ** (ခရစ် ၁၅၄၇–၁၆၁၁)။ ။စပိန်နိုင်ငံမှ ကမ္ဘာကျော် စာရေးဆရာဖြစ်သည်။ ဆင်းရဲနွမ်းပါးသော ကာစတီးပြည်သား မူးမတ်အနွယ်မှ မွေးဖွားသည်။ ဖခင်ဖြစ်သူမှာ ရိုဒီဂရိုသေ သာဗင်တေးဟု အမည်ရှိသော ဆရာဝန်တဦး ဖြစ်၍ နန်းတွင်းသားအချင်းချင်း ဓားရေး လှံရေး ပြကြသည့်အခါ ထိခိုက်ဒဏ်ရာရသည်တို့ကို ကုသ၍ အမှုထမ်းရသည်။

ကာစတီးပြည်သားတို့ သုံးစွဲသော ဘာသာစကားဖြင့် သာဗင်တေးဟု ခေါ်တွင်သော်လည်း အင်္ဂလိပ် စာပေတွင် သူ့ကို စာဗင်တီးဟုသာ လူသိများကြသည်။

ခရစ် ၁၅၄၇ ခုနှစ် ဆောင်းဦးပေါက်ရာသီဝယ် သာဗင်တေးကို အာလကာလာ သေ အေးနာရေးမြို့၌ ဖွားမြင်၍ သားသမီးခြောက်ယောက်အနက် ဒုတိယသားဖြစ်သည်။ ဖခင်မှာ နန်းတွင်း၌ အမှုထမ်းသူ ဖြစ်လေရကား သာဗင်တေးသည် စပိန်နိုင်ငံ၏မြို့တော်၌ ကြီးပြင်းခဲ့ရသည်။ ငယ်စဉ်ကပင် ကဗျာစာပေ၌ မွေ့လျော်သော စာဆိုတော်ကြီးများကို အလွန်အားကျမိခဲ့သည်။ နန်းတွင်း ပြဇာတ်တို့ကို ကြည့်၍ စိတ်ကူးဉာဏ်များ ရင့်သန်ခဲ့ရသည်။ ရှေးဟောင်း

သမိုင်းပုံပြင်တို့နှင့်တကွ မျက်မှောက်ခေတ်၌ စွန့်စားလျက်ရှိကြကုန်သော ပင်လယ်ခရီးသွား သူရဲကောင်း များတို့၏ အကြောင်းအရာတို့ကိုလည်း အလွန် စိတ်ဝင်စားခဲ့သည်။ ဤအချက်တို့သည် သာဗင်တေး ရေးသားသော စာများ၌ အထောက်အပံ့ ဖြစ်စေခဲ့သည်။

အသက် ၂၀ နှစ်အရွယ်၌ ပုပ်ရဟန်းမင်းကြီး၏ သံတမန်လက်အောက်တွင် အမှုထမ်းခဲ့သည်။ ထိုကြောင့် ထင်ရှားသော မြို့များသို့ ရောက်ခဲ့ဖူးသည်။ ၁၅၇၀ ပြည့်နှစ်၌ စပိန်စစ်တပ်တွင် ဝင်ရောက်အမှုထမ်းရာ ၁၅၇၁ ခုနှစ်တွင် ဥရောပတိုက်၌ တူရကီတို့ တန်ခိုးမှိန်စေသော လီပန်တိုတိုက်ပွဲကိုပင် ဝင်ခဲ့ဖူး၏။လက်တဖက်မှာ တိုက်ပွဲ၌ သေနတ်မှန်၍ ပျက်ခဲ့သည်။ ၁၅၇၅ ခုနှစ်၌ကား စစ်တပ်မှ ခွင့်ယူ၍ အပြန်တွင် ပင်လယ်ဓားပြတို့၏ ဖမ်းဆီးခြင်းကို ခံခဲ့ရသည်။ ငါးနှစ်မျှ ဓားပြဗိုလ်ထံတွင် ကျေးကျွန်အဖြစ်နှင့် နေခဲ့ရပြီးနောက် မိတ်ဆွေတို့က ရွေးနုတ်သဖြင့် လွတ်မြောက်ခဲ့ရသည်။

သာဗင်တေးသည် စပိန်နိုင်ငံသို့ ပြန်ရောက်သော အခါ အလုပ် လက်မဲ့ ဖြစ်ရလေသည်။ ဘုရင့်ထံ အလုပ်အကိုင်မစရန် အသနားခံသော်လည်း မည်သည့် အလုပ်မျှ မရသဖြင့် ပြဇာတ်ရေး၍ အသက်မွေးသည်။ သို့ရာတွင် သူ၏ ပြဇာတ်ကို လူကြိုက်မများသဖြင့် ပင်ပန်း ဆင်းရဲခဲ့ရ၏။ ထိုနောက် ပစ္စည်း အတန်ငယ်ရှိသူ အမျိုးသမီး တဦးနှင့် အကြောင်းပါခဲ့သည်။ ၁၅၈၅ ခုနှစ်တွင် ဝတ္ထုတပုဒ် ရေးသား ထုတ်ဝေနိုင်သောကြောင့် အနည်းငယ် နာမည်ထွက်လာသော်လည်း မအောင်မြင်ခဲ့ချေ။၁၅၈၇ ခုနှစ်တွင် အာမာဒါ ရေတပ်အတွက် ရိက္ခာဝယ်ခြမ်းရေး ကိုယ်စားလှယ်အလုပ်ကို လုပ်ကိုင်ခဲ့ရာ စာရင်းအင်းမနိုင်၍ အကြွေးတင်ပြီးလျှင် ကြွေးမှုကြောင့် ထောင်အကြိမ်ကြိမ်ကျခဲ့ရသည်။ ယင်းသို့ထောင်ကျနေစဉ် အင်္ဂလိပ် အသံထွက်ဖြင့် ဒွန်ကွီဇုတ်၊ စပိန်ဘာသာ စကားဖြင့် ဒုန်ကီဟိုတေးဟုခေါ်သော ဝတ္ထုကို ရေးသားခဲ့သည်။ ထိုဝတ္ထု၏ပဌမပိုင်းကို ထောင်မှထွက်လာပြီးနောက်တနှစ် (၁၆၀၅) တွင် ထုတ်ဝေလိုက်ရာ ပဌမပိုင်းနှင့်ပင် ကမ္ဘာကျော်ထင်ရှားလာခဲ့သည်။၁၆၁၅ ခုနှစ်တွင် ဒုတိယပိုင်းကို ဆက်လက်ထုတ်ဝေလိုက်သောအခါ ပို၍ပင်ကျော်ကြားလာလေသည်။ ထိုဝတ္ထုသည် ထိုခေတ်ရှိ စပိန်ပြည်သူပြည်သား အတန်းအစားအမျိုးမျိုးကို သရုပ်ဖော်သည်။ ထိုခေတ်၏ ပတ်ဝန်းကျင် အရိပ်အာဝါသမှာ ဝတ္ထုတွင် ထင်ရှားစွာပေါ်နေသည်။ အထူးသဖြင့် စိတ်ကူးယဉ်လွန်းသူ ဒုန်ကီဟိုတေးနှင့် သူ၏ တပည့်ကျော် စံချိုပန်ဇာတို့၏စွန့်စားမှုတို့သည် ထိုခေတ်ရှိလူစွမ်းကောင်းတို့ကို သရော်ထားလေရာ ဟာသရသနှင့် ပြည့်စုံလှပေသည်။ ဒုန်ကီဟိုတေး ဝတ္ထုသည် ဘာသာပေါင်းစုံဖြင့် ဘာသာပြန်ဆိုခြင်းခံရသော ဂန္ထဝင်ဝတ္ထုကြီး ဖြစ်သည်။



စပိန်အမျိုးသား ဟာသစာရေးဆရာကြီး သာဗင်တေး

၁၆၁၆ ခုနှစ် ဧပြီလ ၂၃ ရက်နေ့တွင် ကမ္ဘာကျော်အင်္ဂလိပ်ပြဇာတ်ဆရာကြီး ရှိတ်စပီးယားကွယ်လွန်သောနေ့၌ ကမ္ဘာကျော် စပိန် ဝတ္ထုရေးဆရာကြီး သာဗင်တေးလည်းကွယ်လွန်လေသည်။ (ရှိတ်စပီးယား၊ ဝိလျံ — လည်းရှု။)

ရှေးခေတ် စစ်သည်တော် သူရဲကောင်းများ၏ စွန့်စားခန်းဒဏ္ဍာရီများသည် တဖြည်းဖြည်း အရသာ ပေါ့ပျက်၍ လူများ၏စိတ်ကို မြှောက်ပေးရုံလောက်သာ ဖြစ်ပြီးလျှင် တကယ့် အာဇာနည်စိတ် သူရဲကောင်းစိတ်များ မဖြစ်ပေါ်စေပဲ ကွယ်ပျောက်စေသည်ကို သရော်သည့် အနေဖြင့် သာဗင်တေးသည် ဒုန်ကီဟိုတေးဝတ္ထုကို ရေးခဲ့လေသည်။ ရှေးအခါက အာဇာနည်သူရဲကောင်းတို့မည်သည် မကောင်းသူပယ် ကောင်းသူကယ်ရခြင်း၊ ဆင်းရဲဒုက္ခ ရောက်သူကို ကူညီရခြင်း၊ လူတို့ကို နှိပ်စက်သော ရန်သူတို့ကို တိုက်ခိုက်ရခြင်း အစရှိသည့်အမှုများကို ဟုတ်သည်ထက်ပို၍ ရေးကြခြင်းကြောင့် ပုံပြင်ဒဏ္ဍာရီများမှရရှိသောသင်ခန်းစာများမှာ ပေါ့ပျက်ရလေသည်။ ပုံပြင်ဒဏ္ဍာရီတို့ကို ဖတ်သောသူတို့မှာ တကယ့် သူရဲကောင်းမဖြစ်ပဲ သူရဲကောင်းများကိုပင် မဖွယ်မရာ တွေးတောတတ်ကြပုံကို သာဗင်တေးက ဒုန်ကီဟိုတေးဝတ္ထုဖြင့် သရော်ခဲ့လေသည်။

သာဗင်တေး ရေးသော ဒုန်ကီဟိုတေးဝတ္ထု၏ ဟာသသဘောထူးခြားပုံကိုပြသော သာဓကတရပ်ရှိသည်။ စပိန်ပြည့်ရှင်တတိယဖိလစ်ဘုရင်သည်တနေ့သောအခါနန်းတော်

လေသာပြတင်းမှ မြို့ဖက်သို့ကြည့်ရာ လမ်းဘေးတွင်စာဖတ်ယင်း မျက်ရည်ထွက်အောင် ရယ်နေသူတဦးကို တွေ့မြင်လေ၏။ထိုအခါ ဘုရင်မင်းမြတ်က “ဤသူကောင့်သားသည် ကေန္တ ဒုန်ကီဟိုတေးဝတ္ထုကို ဖတ်ယင်း ရယ်ဟန်တူသည်” ဟု မိန့်တော်မူသည်ဟုလေသတတ်။

**သာမာထေရီ။** ။သာမာထေရီသည် ဂေါတမမြတ်စွာဘုရား၏ သာသနာတွင် သက်ဝင်ယုံကြည်သော ရဟန္တာမ တပါး ဖြစ်သည်။ ရဟန္တာမ မဖြစ်မီက အမည်မှာ သာမာ ဖြစ်သည်။ ဆောင်းကာလ၌ နွေးသော ကိုယ်ငွေ့ရှိပြီးလျှင် နွေကာလ၌ အေးမြသောကိုယ်ငွေ့ရှိ၏။ အသားအရေမှာ ဝင်းဝါ၏။ ယင်းသို့သော သာမာဂုဏ်နှင့် ပြည့်စုံသောကြောင့် သာမာဟု အမည်မှည့်ခေါ်၏။ သာမာ၏ ဖခင်ကား ကောသမ္ဗီပြည်မှသဌေးတည်း။ သာမာ၏ မိတ်ဆွေကား ယင်းနှင့်အမည်တူ သာမာဝတီသဌေးသမီး ဖြစ်သည်။ သာမာဝတီကို နောင်တွင် ဥတေနမင်းကြီးက သိမ်းမြန်း၍ မိဖုရားအရာမြှောက်၏။ သာမာနှင့် သာမာဝတီ တို့သည် အိမ်ထောင်ပြုခြင်းအမှုကို စက်ဆုပ်ရွံရှာ ကြသူများဖြစ်၏။ သို့သော်လည်း သာမာဝတီမှာ ဘုရင်၏အလိုဆန္ဒကိုမငြင်းပယ်ဝံ့သဖြင့် အိမ်ထောင်ပြုခဲ့ရသည်။ ဥတေနဘုရင်တွင် သာမာဝတီ မိဖုရားမှအပ အခြားသော မိဖုရားများလည်း ရှိကြသည်။ ထိုမိဖုရားတို့အထဲတွင် မာဂဏ္ဍီမိဖုရားလည်း ပါဝင်သည်။ မာဂဏ္ဍီသည် ဂေါတမမြတ်စွာဘုရားအား ရန်ငြိုးဖွဲ့သိုထားသူဖြစ်သည်။ သာမာဝတီမိဖုရားမှာမူ ခုဇ္ဇုတ္တရာမည်သော ကျွန်မထံမှ ဂေါတမမြတ်စွာဘုရား၏တရားတော်ကိုနာယူရ၍ ကြည်ညိုမြတ်နိုးသူဖြစ်၏။ ထိုကြောင့် မာဂဏ္ဍီမိဖုရားသည် သာမာဝတီမိဖုရား ပျက်စီးရာပျက်စီးကြောင်းကိုကြံစည်၏။မာဂဏ္ဍီ၏လုပ်ကြံမှုဖြင့် သာမာဝတီမိဖုရားနှင့် အခြံအရံများသည် မီးလောင်၍ သေဆုံးကြရကုန်သည်။

ထိုသတင်းသည် သာမာဝတီ မိဖုရား၏ မိတ်ဆွေ ဖြစ်သော သာမာထံသို့ရောက်လာသည်။ သာမာသည် ကြီးစွာထိတ်လန့်ခြင်းဖြစ်မိ၏။သာမာဝတီမိဖုရားသည် အိမ်ထောင်ပြုမိ၍သာ ယင်းသို့သော ဒုက္ခနှင့် တွေ့ရသည်ဟု စိတ်တွင်ထင်မှတ်၏။ ထိုကြောင့် ဒုက္ခများ ပြတ်ရန် ရဟန်းပြု၏။ အမည်မှာ သာမာထေရီ ဖြစ်၏။ ရဟန်းပြု၍ တရား အားထုတ်ရာတွင် သာမာထေရီမှာ သာမာဝတီကို စွဲလန်းတွယ်တာမှုကြောင့် တရား မရနိုင် ဖြစ်နေခဲ့ရာ နောက်ဆုံး ရှင်အာနန္ဒာ၏ ဆုံးမ သွန်သင်မှုဖြင့် ကိလေသာ ကုန်ခန်း၍ ရဟန္တာမ ဖြစ်ခဲ့လေသည်။

**သာမောပလီး။** ။သာမော ပလီးဆိုသည်မှာ ကမ္ဘာ့ သမိုင်းတွင် စာတင်ခဲ့ရသော အဖြစ်အပျက်များ ဖြစ်ပွားခဲ့ဘူးရာ ဂရိနိုင်ငံ မြောက်ပိုင်းရှိ တောင်ကြားလမ်း၏ အမည် ဖြစ်သည်။ ထိုဒေသတဝိုက်တွင် ထုံနာ ကျင်နာ ကိုက်ခဲနာများကို ပျောက်ကင်းစေနိုင်သည့်ရေပူစမ်းကြီးတခုနှင့် ရေပူစမ်းငယ် လေးခုရှိသည်ကို အစွဲပြု၍ “အပူထွက်ပေါက်” ဟု အဓိပ္ပာယ်ရသော ထိုအမည်ဖြင့် တွင်ခြင်းဖြစ်သည်။

သာမောပလီးတောင်ကြားလမ်းသည် အိုအီတာတောင်နှင့် မာလီယက် ပင်လယ်ကွေ့ကြားတွင်ရှိ၍ ပေ၅၀ ခန့်သာ ကျယ်သည်။ ယခုမူ ကာလရှည်ကြာစွာ ချောင်းမြောင်းတို့၏ ရေတိုက်စားမှုကြောင့် တောင်ကြားလမ်း ဟူ၍ မရှိတော့ပဲ ပင်လယ်ဖက်သို့ ပိုမိုကျယ်ပြန့်သွားသော လွင်ပြင်ကြီးဖြစ်နေလေသည်။ ရှေးအခါက ယင်းသည် ဂရိနိုင်ငံ မြောက်ပိုင်းမှ ဂရိနိုင်ငံတောင်ပိုင်းသို့ ဝင်ထွက် သွားလာရန် တခုတည်းသော လမ်းပေါက်ဖြစ်ခဲ့သည်။

ဘီစီ၄၈၀ ပြည့်နှစ်တွင် ပါးရှားဘုရင်ဇာဇီးသည် ဂရိနိုင်ငံကို တိုက်ခိုက်သိမ်းပိုက်ရန် စစ်သည်ဗိုလ်ပါ အလုံးအရင်းနှင့် ဂရိကျွန်းဆွယ်သို့ ချီတက်လာခဲ့၏။ ဒါးဒနဲ ရေလက်ကြားကို အခက်အခဲမရှိပဲ ဖြတ်ကူးနိုင်သော်လည်း ဟဲလစပွန်အငူမှ ဂရိနိုင်ငံသို့ချီတက်ရာတွင် ပါးရှင်းတို့သည် သာမောပလီး တောင်ကြားလမ်းကျဉ်းကလေးကို ဖြတ်သွားရမည် ဖြစ်၏။ ထိုတောင်ကြားလမ်းသည် ရန်သူတို့ကို တားဆီးထားရန် အလွန်ကောင်းသောနေရာ ဖြစ်သည်။

ဂရိနိုင်ငံသည် ပါးရှင်းတို့၏ရန်ကိုခုခံရန်ပြင်ဆင်ထားကြရာ ဂရိပြည်နယ်တခုဖြစ်သောစပါးတားပြည်နယ်သည်လည်း ပါဝင်ခဲ့၏။ ထိုကြောင့် ပါးရှင်းတို့သည် ထိုတောင်ကြားလမ်းကို ဖြတ်ကျော်ရမည်ကို သိသော စပါးတားဘုရင် လီယွန်နီဒက်သည် စစ်သား ၃၀၀ ခန့်နှင့် ထိုတောင်ကြားလမ်းမှ ပါးရှင်းတပ်ကြီးကို ဆီးကြို ခုခံ တိုက်ခိုက် လေ၏။ ပါးရှင်းတို့သည် ဂရိတို့အား တနေကုန် ကြိုးစား တိုက်ခိုက်သော်လည်း ရှေ့သို့ မတိုးနိုင်အောင် ဖြစ်၍ အကျအဆုံးလည်း များပြားခဲ့လေသည်။ သို့သော် အီဖီယယ်လတီး ဆိုသူ သစ္စာလွယ်သော ဂရိတဦး၏သစ္စာဖောက်မှုကြောင့် သာမောပလီးတောင်ကြားလမ်းကိုကွေ့ရှောင်၍ အနောက်ဖက်မှ ဝန်းရံမိအောင် သွားနိုင်သည့် လမ်းတလမ်းကို ပါးရှင်းတို့သိသွားကြပြီး ပါးရှင်းတပ်တို့သည်တောင်ကြားလမ်းကို ဟန်မပျက် တိုက်သူကတိုက်၍ ဖြတ်လမ်းမှအလုံးအရင်းနှင့် ဂရိစစ်သည်တို့၏ နောက်ကျောဖက်သို့ ချီတက် လေသည်။ တောင်ကြားလမ်းကိုသာ သဲသဲမဲမဲ တိုက်နေသော ဂရိတို့သည် ရှေ့ရောနောက်ပါ ရန်သူတပ်များဖြင့် ပိတ်ညပ်မိလေသည်။သို့သော် ဂရိတပ်သည် တယောက်မကျန် သေဆုံးသည်အထိ ရန်သူတို့ကို ခုခံတိုက်ခိုက်ကြလေသည်။

ဂရိတို့သည် ထိုတောင်ကြားလမ်းမှနေ၍ ဘီစီ ၂၇၉ခုနှစ်တွင် ဂရိနိုင်ငံကို သိမ်းပိုက်ရန် ဝင်လာသော ဗရင်နပ်နှင့်

ဂေါလစစ်သည်တို့အားရင်း၊ ဘီစီ ၂၀၇ ခုနှစ်တွင် မက်ဆီဒိုးနီးယားပြည့်ရှင် ဘုရင်ဖိလစ်၏ တိုက်ခိုက်လာခြင်းကိုရင်းတားဆီးခုခံ တိုက်ခိုက်ကြသေးသော်လည်း အရေးမလှခဲ့ကြချေ။

ဤသို့ဖြင့် ကမ္ဘာ့သမိုင်းတွင် သာမေပလီးမှာ အရေးပါသော တောင်ကြားလမ်းတခုဖြစ်ခဲ့လေသည်။

**သာမိုမီတာ။** ။ကလေးနေထိုင်မကောင်းလျှင်မိခင်ဖြစ်သူသည် များသောအားဖြင့် ကလေး၏နဖူးပြင်ပေါ်၌ လက်ဝါးတင်၍ ကလေး၏ကိုယ်ပူချိန်ကို စမ်းသပ် ကြည့်လေ့ ရှိသည်။ သို့ရာတွင် ခေတ်မီသောမိခင်ဖြစ်မူကား လက်ဝါးနှင့်မစမ်းသပ်ပဲ သာမိုမီတာခေါ် အပူအအေးတိုင်း ကရိယာဖြင့် ကလေး၏ အပူချိန်ကို တိကျစွာ တိုင်းကြည့်ပေလိမ့်မည်။

သာမိုမီတာကို ပြဒါးတိုင်ဟုလည်း ခေါ်လေ့ရှိခြင်းမှာ ဖန်ပြွန်ချောင်းကလေးအတွင်း ပြဒါးထည့်ထားသည့် ကရိယာမျိုးကိုသာ မြင်တွေ့နေကြသောကြောင့် ဖြစ်လေသည်။ သို့ရာတွင် စတင်ပေါ်ပေါက်လာသည့် နေ့မှစ၍ ယနေ့တိုင်အောင် အသုံးပြုခဲ့ အသုံးပြုဆဲဖြစ်သော အပူအအေးတိုင်းကရိယာများကိုကြည့်လျှင် ပြဒါးအပြင် လေကိုရင်း၊အရက်ပျံကိုရင်း၊ ဟိုက်ဒြိုဂျင် ဓာတ်ငွေ့ကိုရင်း၊သတ္တုချည်း သက်သက်ကိုရင်း အသီးအသီး အသုံးပြုခဲ့ကြသည်ကို တွေ့ရလေသည်။ သို့သော် အငွေ့ အရည် အခဲ ဤသုံးမျိုးအနက် မည်သည့် ပစ္စည်းကို အသုံးပြုသည်ဖြစ်စေ သာမိုမီတာများကို ယေဘုယျ ပြုလုပ်ထားပုံမှာ အရာဝတ္ထုတို့သည် အေးလျှင် ကျုံ့၍ ပူလျှင် ကားတတ်သည်ဟူသော သဘောအပေါ်တွင် အခြေပြုထားခြင်းပင် ဖြစ်ပေသည်။

ပဌမဆုံး သာမိုမီတာကို တီထွင်သူမှာ ဣတာလျံလူမျိုး နက္ခတ်ပညာကျော် ဂယ်လီလေအိုဖြစ်၍ ၁၆ ရာစုနှစ်အတွင်း သူကြံစည်သော ပဌမ ကရိယာမှာ ပြဒါးအစား လေကို သုံးထားသည့် ကရိယာ ဖြစ်လေသည်။နောက် နှစ်အနည်းငယ်ကြာသောအခါ ဂယ်လီလေအိုသည် လေအစား အရက်ပျံကို အသုံးပြုသော ဒုတိယ အမျိုးအစားကရိယာကို တိုးတက်ကြံစည်ပြန်လေသည်။၁၇ရာစုနှစ်အတွင်း ဒပ်ချလူမျိုး ဒရက်ဗဲဆိုသူ ကြံစည်သော သာမိုမီတာမှာမူ ပုလင်းအဝကျဉ်းလည်ပင်းရှည်တွင် ရေကိုထည့်ထား၍ ထို ရေအမှတ်အတက်အကျကို မှတ်သားခြင်းဖြင့် အပူအအေးကို တိုင်းတာလေသည်။ ထိုကရိယာကို တဖန် ပြင်သစ်လူမျိုး ဇန်း ရဝါ ဆိုသူက ၁၆၃၀ ပြည့်နှစ်တွင် ရေအစား အရက်ပျံကိုသုံးကာ တမျိုးပြုပြင်လိုက်ပြန်သည်။ တဖန် နောက်ဆယ်နှစ်ကြာသော အခါ တပ်စကန်နီ နယ်စားကြီးက အထက်ပါ အရက်ပျံကို အသုံးပြုသည့် ကရိယာတွင် ပုလင်းထဲရှိလေကို ထုတ်ပစ်ပိတ်ဆို့ခြင်းဖြင့် အမှတ်အသားပို၍ တိကျ မှန်ကန်သော အမျိုးအစားကို တိုးတက် ကြံစည်လိုက် ပြန်လေသည်။ ၁၇၁၄ ခုနှစ်တွင် ဂျာမန်သိပ္ပံပညာရှင် ဖာရင်ဟိုက်ဆိုသူက အရက်ပျံအစား ပြဒါးကိုအသုံးပြုသော သာမိုမီတာကိုပြုလုပ်၍ အပူအအေးစံချိန် အမှတ်သညာ သစ်ကိုတီထွင်လေသည်။ သူ့အမှတ်အသားအရ ရေခဲသည့်အအေးချိန်ကို ၃၂ ဒီဂရီ ဟူ၍ သတ်မှတ်ပြီးလျှင် ရေဆူသည့် အပူချိန်ကို ၂၁၂ ဒီဂရီဟု သတ်မှတ်ခဲ့သည်။ ထိုသာမိုမီတာမျိုးကိုလည်း တီထွင်သူအား အစွဲပြု၍ ဖာရင်ဟိုက် သာမိုမီတာဟု ခေါ်ကြသည်။

ယခုခေတ်သုံး သာမန်သာမိုမီတာများတွင်မူ ပြဒါးကိုအသုံးများကြလေသည်။ ပြဒါးကို အသုံးပြုခြင်းမှာ ပြဒါးသည် ဖာရင်ဟိုက် ၆၇၅ ဒီဂရီရောက်မှဆူ၍ သုညအောက် ၃၈ ဒီဂရီ ရောက်မှ ခဲပြီးလျှင် အပူတိုက်ပေး၍ ကား(ကြီးထွား)လာသော အခါ၌လည်း ညီညာ မှန်ကန်သည့် အတွက်ဖြစ်လေသည်။ သို့ရာတွင် သုညအောက် ၃၈ ဒီဂရီထက် အောက်ကျသောအအေးကို တိုင်းတာလိုသောအခါ ပြဒါးခဲချိန် အမှတ်ထက် အရက်ပျံခဲချိန်အမှတ်က ပို၍နိမ့်သည့် အတွက် ပြဒါးအစား အရက်ပျံကို အသုံး ပြုရလေသည်။ အပူရှိန်အားကြီးသော အပူချိန်ကို တိုင်းတာရာတွင်မူ ဟိုက်ဒြိုဂျင် စသော ဓာတ်ငွေ့သုံး ကရိယာမျိုးနှင့် ပိုင်ရိုမီတာခေါ် ဖန်ပြွန်အစား ကျောက်သလင်းပြွန်ကို အသုံးပြုပြီး ဖိနှိပ်ထားသော ဟိုက်ဒြိုဂျင်၊ သို့မဟုတ် ကာဗွန်ဒိုင်အောက်ဆိုက်ဓာတ်ကို ထည့်ထားသည့် ကရိယာ မျိုးကို သုံးရပြန်လေသည်။ (ပိုင်ရိုမီတာ — ရှု။)

သာမန် သာမိုမီတာသည် ထိပ်ဖျားတွင် ဖန်သီးငယ်ရှိသော ဖန်ပြွန်ချောင်းကလေး ဖြစ်သည်။ ဖန်ပြွန်ချောင်း၏ထိပ်ဖက်ကို မီးမြှိုက် အရည်ပျော်စေခြင်းဖြင့် အပေါက်ပိတ်ထားသည်။ ထိုဖန်ပြွန်ချောင်းတွင် ပြဒါး၊သို့မဟုတ်အရောင်ဆိုးထားသော အရက်ပျံတခုခုကို ထည့်ထား၍ပြွန်ချောင်း၏ အထက်ပိုင်းကို ပလာနယ်ဖြစ်နေအောင် စီမံထားလေသည်။ ဒီဂရီအမှတ်အသားကို မှတ်သားရာတွင် အဆိုပါကရိယာကို ရေအေးဦးစွာ ရေခဲတွင်နှစ်၍ ရေခဲချိန် အမှတ်ကို ရှာရသည်။ ထို့နောက် ဆူပွက်နေသည့်ရေမှထွက်လာသော ရေနွေးငွေ့တွင်ပြ၍ ရေဆူချိန်အမှတ်ကို ရှာပြန်လေသည်။

ဒီဂရီများကို စင်တီဂရိတ်နှင့် ဖာရင်ဟိုက်ဟူ၍ အမှတ်အသားနှစ်မျိုးနှင့် မှတ်သားလေ့ရှိသည်။ စင်တီဂရိတ်တွင် ရေခဲသည့်အမှတ်ကို သုညဒီဂရီ၊ ရေဆူသည့် အမှတ်ကို ဒီဂရီ ၁၀၀ ဟု မှတ်သားပြီးသော် ထိုအမှတ်နှစ်ခု အကြားတွင် အပိုင်းညီအမှတ်ကလေးပေါင်း ၁၀၀ ခွဲ၍စိတ်ပိုင်းခြား ထားသည်။ စင်တီဂရိတ်သာမိုမီတာကိုတီထွင်သူ အန်ဒါ ဝဲလဆီးယပ်အားအစွဲပြု၍ ဝဲလဆီးယပ် သာမိုမီတာဟုလည်း ခေါ်

သည်။ ဖာရင်ဟိုက်တွင်မူ ရေခဲသည့်အမှတ်သည် ၃၂ဒီဂရီဖြစ်၍ ရေဆူသည့်အမှတ်မှာ ၂၁၂ ဒီဂရီဖြစ်ပြီးလျှင် အဆိုပါ အမှတ်နှစ်ခုကြား၌ အပိုင်းညီ အမှတ်ကလေးပေါင်း ၁၈၀ ခွဲစိတ် ပိုင်းခြားထား လေသည်။ စင်တီဂရိတ် အမှတ်သုံး သာမိုမီတာကို သိပ္ပံပညာဆိုင်ရာ ကိစ္စများအတွက် တကမ္ဘာလုံးက အသုံးပြုကြပြီးလျှင် ဖာရင်ဟိုက် အမှတ်သုံး သာမိုမီတာကိုမူ အင်္ဂလိပ် ဘာသာစကားကို ပြောဆို ကြသော နိုင်ငံများတွင်သာ သာမန် ကိစ္စများအတွက် အသုံး များလေသည်။ ထိုပြင် ယခု အသုံးနည်းသေးသော ဂျာမနီနိုင်ငံသုံး ရေအိုမျူအာခေါ် သာမိုမီတာမျိုးဟူ၍လည်း ရှိသေးသည်။ ယင်းတွင် ရေခဲသည့်အမှတ်ကို သုည၊ ရေဆူသည့် အမှတ်ကို ဒီဂရီ ၈၀ ဟု မှတ်သားထားလေသည်။ အတွေ့ရအများဆုံးသော သာမိုမီတာမျိုးမှာ ဆရာဝန်သုံး ပြဒါးတိုင်ပင်ဖြစ်သည်။ ထိုသာမိုမီတာသည် သာမန် ဖာရင်ဟိုက် သာမိုမီတာကို တမျိုးတမည် ပြုပြင်ထားခြင်းဖြစ်သည်။ ထိုပြဒါးတိုင်တွင် ဖန်သီးကလေး အထက်ဖက်၌ ဖန်ပြွန်ချောင်းကို အနည်းငယ် အပေါက်ကျဉ်းထားသည်။ ထိုကြောင့် လူနာ၏ ပါးစပ်မှ နုတ်ယူလိုက်ပြီးသည့်အခါတွင် ပြဒါးသည်အောက်ကို ပြန်မဆင်းပဲနေသဖြင့်လူနာ၏အပူချိန် အမှတ်ကို တိကျစွာ ကြည့်ရှုမှတ်သားနိုင်ပေသည်။ ထိုကြောင့် အဆိုပါ သာမိုမီတာကို အသုံးပြုမည်ကြံသော အခါ ပြဒါးအားလုံး ဖန်သီးထဲသို့ ပြန်လည်ရောက်ရှိနေစေရန် ပြဒါးတိုင်ကို ပဌမလှုပ်ရှားခါပေးရလေသည်။ သာမန် လူကောင်းတဦး၏ ပျမ်းမျှ အပူချိန်သည် ဖာရင်ဟိုက် ၉၈.၄ ဒီဂရီဖြစ်၍ ဆရာဝန်သုံး ပြဒါးတိုင် အပေါ်တွင် ဖာရင်ဟိုက်ဒီဂရီ ၉၃ မှ ၁၁၀ အထိသာ မှတ်သားထားလေ့ ရှိလေသည်။



**စင်တီဂရိတ်နှင့် ဖာရင်ဟိုက် အမှတ်အသား နှစ်မျိုးသုံး သာမိုမီတာ**

ပေါင်မုံ့ဖို ကိတ်မုံ့ဖို စသော အပူရှိန်ပြင်းသည့် နေရာမျိုးတွင် ပြဒါးနှင့် အရက်ပျံတို့ကို သုံးရန် မဖြစ်နိုင်သည့် အတွက် သတ္တုချည်းသက်သက်ကို အသုံးပြုထားသော ကရိယာမျိုးကို သုံးရလေသည်။ ထိုကရိယာတွင် ထိပ်ချင်းဆက်ထားသော သတ္တုပြားနှစ်ခု(ပုံပမာ—ကြေးဝါနှင့် သံ) ကို အခွေပြုလုပ်ထားသည်။ ပူလာသော အခါ သတ္တုနှစ်မျိုးစလုံး ကားထွက်လာသည်။ သို့သော် ကားပုံချင်း မတူသဖြင့် အထက်ပါ သတ္တုခွေသည် ပူလျှင်ပူသလို စန့်ထွက်လာလေသည်။ ထိုသတ္တုခွေတွင် လက်တံတပ်ထား၍ ထိုလက်တံက အပူချိန်ဒီဂရီအမှတ်ကို ညွှန်ပြလေသည်။

အပူအအေးချိန်များကို မိမိဖာသာ မှတ်သားပေးသည့် ကရိယာမျိုးလည်းရှိသေး၍ ထိုကရိယာကို 'သာမိုဂရပ်' ဟုခေါ်လေသည်။ သာမိုဂရပ်သည် အထက်ပါ သတ္တုခွေသုံး သာမိုမီတာကို တိုးတက်ကြံစည် ပြုလုပ်ထားခြင်းပင် ဖြစ်သည်။ ဤကရိယာတွင် သတ္တုခွေ၌ လက်တံအစား အဖျား၌ မင်တံတပ်ထားသော မောင်းတံကို အသုံးပြုထားသည်။ ထိုမင်တံကို နာရီစက်ဖြင့် တရွေ့ရွေ့ လည်နေသည့် စက္ကူပေါ်တွင် ထောက်ထားသည်။ စက္ကူပေါ်တွင် နာရီမိနစ်များ ဒီဂရီများဖြင့် ဇယားကွက်များ ချထားသည်။ ထိုအခါ ဇယားပေါ်ရှိ မျဉ်းကြောင်းကို ကြည့်ခြင်းဖြင့် မည်သည့် အချိန်၌ အပူအအေးချိန် မည်မျှ ရှိသည်ကို အဆင်သင့် တွေ့နိုင်လေသည်။ ယမန်နေ့က အအေးဆုံး ဒီဂရီမည်မျှ၊ အပူဆုံးဒီဂရီမည်မျှ ရှိသည် စသည်ဖြင့် မိုးလေဝသဌာန ပြန်တမ်းများ၌ တွေ့မြင်ရတတ်သည်။ အမှန်စင်စစ် ထိုဒီဂရီအမှတ်အသားများကို မည်သူမျှတနေ့လုံးတညဉ့်လုံး ထိုင်စောင့်ပြီး ကြည့်မှတ်ထားသည် မဟုတ်ချေ။ သူ့အလိုအလျောက် မှတ်သားသည့် ကရိယာမှ ကြည့်ယူခြင်းသာလျှင် ဖြစ်ပေသည်။ ထိုကိစ္စအတွက် အထက်ဖော်ပြပါသတ္တုခွေသုံး ကရိယာ မျိုးကို အသုံးပြု၍ 'အအေးဆုံး အမှတ်


**သာမိုမီတာ၏ အပချိန်မှတ်ကို စစ်ဆေး မှတ်ယူရသည်။**

ပြ သာမိုမီတာ' နှင့် 'အပူဆုံးအမှတ်ပြ သာမိုမီတာ' ဟုခေါ်သော ကရိယာမျိုးကိုလည်း အသုံးပြုကြသည်။ ဒုတိယအမျိုးအစား ကရိယာနှစ်မျိုးတွင် ဖန်ပြွန်ချောင်းအတွင်း၌ အရက်ပျံကို အသုံးပြုလေ့ရှိပြီးလျှင် အရွယ်တော်အမှတ်ပြ ဖန်စနှင့် သံစကလေးတခုစီကိုထည့်ထားလေသည်။ အအေးဆုံး အမှတ်ပြ ကရိယာတွင် ရှိသော အဆိုပါ သံစကလေးသည် အရက်ပျံအမှတ်နှင့်အတူ လိုက်ပါ နိမ့်ကျသွားနိုင်သည်။ သို့သော် အပူချိန်တိုးလာ၍ အရက်ပျံအမှတ် တက်လာသောအခါ သံစကလေးသည် မိမိအောက် အနိမ့်ဆုံးရောက်သော အမှတ်တွင် ကျန်ရစ်ခဲ့လေသည်။ ထိုအမှတ်ကား အအေးဆုံး ဒီဂရီအမှတ်ပင် ဖြစ်လေသည်။ အပူဆုံးအမှတ်ပြ ကရိယာတွင်ရှိသော ဖန်စမှာမူ အထက်ဖက်သို့သာ လိုက်ပါနိုင်၍ အောက်ဖက်သို့ အလိုအလျောက် မကျနိုင်ပေ။ အဆိုပါကရိယာများကို နောက်တကြိမ် ထပ်မံအသုံးပြုလိုသောအခါ သံစကလေးကို အပြင်ဖက်မှ သံလိုက်ဖြင့် ဆွဲ၍၎င်း၊ ဖန်စကလေးကိုမူ လက်ဖြင့် အသာတောက်ပေးခြင်းဖြင့်၎င်း မူလနေရာ အသီးအသီးသို့ ရွှေ့ပေးရလေသည်။

**သာမှုနာမှု။** ။သာမှုနာမှုဆိုရာ၌ သာမှုဟူသည် လောကီ မင်္ဂလာ အရပ်ရပ်ကို ပြုခြင်း၊ ရှင်ပြုခြင်း၊ ရဟန်းခံခြင်း၊ အိမ်ယာဆောက်ခြင်း၊ ဘုရားတည်ခြင်း၊ ကျောင်းဆောက်ခြင်း၊ ဇရပ်ဆောက်ခြင်း၊ တန်ဆောင်းဆောက်ခြင်း စသည်တို့ဖြစ်သည်။ (တနည်း) တိုးတက်ကြီးပွားသော လုပ်ငန်းကိစ္စ ဟူသမျှကို သာမှုဆိုသည်။

နာမှုဟူသည် သားမယား ဆွေမျိုး ဉာတိ သေဆုံးခြင်း၊ အနာရောဂါကပ်ရောက်ခြင်း၊ မင်းဘေး မင်းဒဏ် သင့်ခြင်း၊ စည်းစိမ်ဥစ္စာ ပျက်စီးခြင်း စသည်တို့ဖြစ်သည်။ (တနည်း) ဆုတ်ယုတ် ပျက်စီးသော လုပ်ငန်းကိစ္စ ဟူသမျှကို နာမှုဆိုသည်။

ထိုပြင် သာမှုကို သာရေး၊ နာမှုကို နာရေး ဟု ခေါ်ကြသေးသည်။ (တနည်း) သာမှုကို ကောင်းသော လုပ်ငန်းကိစ္စ ဖြစ်၍ သုဘ၊ နာမှုကို မကောင်းသော လုပ်ငန်းကိစ္စဖြစ်၍ အသုဘဟု ခေါ်ကြသေးသည်။ (တနည်း) သာမှုကို လူအများတို့ လိုလားနှစ်သက်အပ်သော လုပ်ငန်းကိစ္စဖြစ်၍ ဣဋ္ဌ၊ နာမှုကို လူအများတို့ မလိုလား မနှစ်သက်အပ်သော လုပ်ငန်းကိစ္စဖြစ်၍ အနိဋ္ဌ ဟု ခေါ်ကြသေးသည်။

(တနည်း) သာမှုနာမှုနှင့် စပ်လျဉ်း၍ ထိုထို စာအုပ်စာတမ်းတို့၌ "လူတို့မှာ ရပ်ရွာ၌ သာမှု, နာမှု၊ ဒုမင်္ဂလာ, သုမင်္ဂလာ ပွဲများတွင်" ဟူ၍၎င်း၊ 'စည်တော်ကို သုမင်္ဂလာနှင့်သက်ဆိုင်သည့် ကိစ္စရပ်များတွင်သာ တီးလေ့ ရှိကြသည်' ဟူ၍၎င်း ရေးသားကြသည်ကိုထောက်လျှင် သာမှုကို ကောင်းသောမင်္ဂလာ ဖြစ်၍ သုမင်္ဂလာ၊ နာမှုကို မကောင်းသောမင်္ဂလာ ဖြစ်၍ ဒုမင်္ဂလာ ဟုလည်း ခေါ်ကြသေးသည်။ "မင်္ဂလာကိစ္စ၊ အမင်္ဂလာကိစ္စ၊ သာမှု, နာမှု စသော အရာများကို" ဟု ရေးသားကြပြန်သည်ကိုထောက်လျှင် သာမှုကို မင်္ဂလာ၊ နာမှုကို အမင်္ဂလာဟု ခေါ်ကြသေးသည် သာမကသေး နာမှုကို အဝမင်္ဂလာဟုလည်း ခေါ်ကြသေးသည်။

ထိုကြောင့် သာမှုဆိုသောစကားနှင့် သာရေး ဆိုသောစကား၊ သုဘဆိုသောစကား၊ ဣဋ္ဌဆိုသောစကား၊ သုမင်္ဂလာ ဆိုသော စကား၊ မင်္ဂလာ ဆိုသော စကားများသည် အနက်အဓိပ္ပါယ်အားဖြင့် တူသည်။ နာမှုဆိုသော စကားနှင့် နာရေးဆိုသောစကား၊ အသုဘဆိုသောစကား၊ အနိဋ္ဌဆိုသော စကား၊ ဒုမင်္ဂလာ ဆိုသောစကား၊ အမင်္ဂလာ ဆိုသောစကား၊ အဝမင်္ဂလာ ဆိုသော စကားများသည် အနက် အဓိပ္ပါယ်အားဖြင့် တူသည်။ ထိုသို့ သာမှုနာမှု ဆိုရာ၌ မည်မျှပင် အမည်သညာ များပြားနေသော်လည်း အဓိပ္ပါယ်လိုရင်းချုပ်လိုက်လျှင် တိုးတက်ကြီးပွားသော လုပ်ငန်းကိစ္စ၊ ကောင်းသော လုပ်ငန်း ကိစ္စ၊ ကျက်သရေ မင်္ဂလာရှိသော လုပ်ငန်း ကိစ္စ ဟူသမျှမှာ သာမှု ဖြစ်ကြောင်း၊ ဆုတ်ယုတ်ပျက်စီးသော လုပ်ငန်းကိစ္စ၊ မကောင်းသော လုပ်ငန်းကိစ္စ၊ ကျက်သရေ မင်္ဂလာမရှိသော လုပ်ငန်းကိစ္စဟူသမျှမှာ နာမှု ဖြစ်ကြောင်း ထင်ရှားသည်။

ထို သာမှုနာမှုကို ဆိုသောစကားမှာ အရပ်သုံး စကား ဖြစ်သောကြောင့် စာပေကျမ်းဂန်တို့၌ ယင်းအမည်ဖြင့် ပြဆိုရေးသားထားခြင်း များစွာ မရှိသော်လည်း အနက်အဓိပ္ပါယ်တူ ဖြစ်သော ဒုမင်္ဂလာ၊ သုမင်္ဂလာ၊ မင်္ဂလာ၊ အဝမင်္ဂလာဟူသောအမည်ဖြင့်ပြဆိုရေးသားထားခြင်းကား များစွာရှိ၏။ ထိုကြောင့် မင်္ဂလာ အမင်္ဂလာ ဟူသော အမည်ကို အခြေခံထား၍ ရေးသားဖော်ပြပါအံ့။

မင်္ဂလာသည် လောကုတ္တရာဆိုင်ရာမင်္ဂလာ၊ လောကီဖက်ဆိုင်ရာ မင်္ဂလာ ဟု နှစ်မျိုးရှိရာ လောကုတ္တရာဖက် ဆိုင်ရာ မင်္ဂလာမှာ သုံးဆဲ့ရှစ်ပါး ဖြစ်သည်။ ထိုသုံးဆဲ့ရှစ်ပါးတို့တွင် သူမိုက်တို့ကို မမှီဝဲ မဆည်းကပ်ခြင်းမှာ မင်္ဂလာဖြစ်၍ ထိုမှ အပြန်ယူလျှင် သူမိုက်တို့ကို မှီဝဲဆည်းကပ်ခြင်းမှာ အမင်္ဂလာ ဖြစ်၏။ ထိုနည်းတူ ပညာရှိတို့ကို မှီဝဲဆည်းကပ်ခြင်းမှာ မင်္ဂလာ ဖြစ်၍ ပညာရှိတို့ကို မမှီဝဲ မဆည်းကပ်ခြင်းမှာ အမင်္ဂလာဖြစ်၏။ ပူဇော်ထိုက်သောသူတို့ကို ပူဇော်ခြင်းမှာ မင်္ဂလာဖြစ်၍ ပူဇော်ထိုက်သော သူတို့ကို မပူဇော်ခြင်းမှာ အမင်္ဂလာဖြစ်၏။ ဤသို့လျှင် မင်္ဂလာသုံးဆဲ့ရှစ်ပါး စေ့အောင် ယူပါ။ (မင်္ဂလာ ၃၈ ပါး — ရှု။) ဤ၌ မင်္ဂလာ ဟူသမျှမှာ သာမှုဖြစ်၍ အမင်္ဂလာဟူသမျှမှာ နာမှုဖြစ်သည်။ လောကုတ္တရာဆိုင်ရာ မင်္ဂလာမှာ နှစ်ကောင်း၊ လကောင်း၊ ရက်ကောင်း၊ နေ့ကောင်း၊ အချိန်ကောင်းရွေးရန်မလို။

လောကီဆိုင်ရာ မင်္ဂလာမှာ မင်္ဂလာ အမင်္ဂလာ ယူဆရာ၌ ဂြိုဟ်၊ နက္ခတ်၊ တာရာ စသည်တို့ကို ပြဆိုသော ဗေဒင်ကျမ်းတို့အလိုအားဖြင့်၎င်း၊ ရှေးသူဟောင်းတို့ လုပ်ရိုး လုပ်စဉ် ထုံးတမ်းစဉ်လာအားဖြင့်၎င်း ယူဆရသည်။ ဗေဒင်ကျမ်းတို့မှာလည်း ကမ္ဘာတိုင်းဖြစ်ပေါ်လာမြဲ ဖြစ်သဖြင့် ကမ္ဘာသူ ကမ္ဘာသားတို့ အသုံးပြုသော ကမ္ဘာ့တန်ဆာ ကျမ်းများဖြစ်၏။ ကမ္ဘာသူ ကမ္ဘာသားတို့သည် ဗုဒ္ဓဘုရားပွင့်တော်မူသောအခါ ဗုဒ္ဓဘုရား၏ အဆုံးအမကို ခံယူကြရသော်လည်း ဗုဒ္ဓဘုရား ပွင့်တော်မမူသောအခါ၌ကား ဗေဒင်ကျမ်းတို့ အဆုံးအမကို ခံယူကြရသည်။

ကောင်းကင်၌ သွားလာနေသော ဂြိုဟ်၊ နက္ခတ်၊ တာရာတို့ကား နှစ်၊ လ၊ ရက်၊ နေ့၊ ရာသီ၊ ဥတုတို့နှင့် ဆက်သွယ်လျက်ရှိသည်။ လူတို့၏ သာမှု နာမှု၊ သုဘ အသုဘ၊ မင်္ဂလာ အမင်္ဂလာ၊ ကောင်းကျိုး မကောင်းကျိုးတို့နှင့်လည်း ဆက်သွယ်လျက်ရှိသည်။ လူတို့မှာ ဖွားသောအချိန်၌ ကောင်းကင် တဆဲ့နှစ်ရာသီတွင် တည်ဆဲဖြစ်သော ဂြိုဟ်၊ နက္ခတ်၊တာရာတို့ကိုမှတ်သားထားသော ဇာတာနှင့် ရောက်ရာဂြိုဟ်၊နက္ခတ်၊တာရာတို့ကိုတိုက်ဆိုင်ကြည့်ရှု၍ သုဘ အသုဘ၊ ကောင်းကျိုး မကောင်းကျိုးကို ပြောဟောလေ့ ရှိကြသည်။ ဟောပြောသည့်အတိုင်း မှန်ကန်သည်ဟု ယူဆကြသည်။

ထိုကြောင့် လူတို့သည် အမှုကိစ္စပြုလုပ်ကြရာ၌ အမှုကိစ္စအားလျော်စွာ ကောင်းသော နှစ်၊ လ၊ ရက်၊ နေ့၊ အချိန်ကို ရွေးချယ်၍ ပြုလုပ်လေ့ရှိကြသည်။ သာမှု မင်္ဂလာမှု ဖြစ်သော်လည်း မရွေးချယ်သည့်အတွက် ချွတ်ယွင်း ပျက်စီးသွားလျှင် နာမှု အမင်္ဂလာမှု ဖြစ်သွားတတ်သည်။ ကောင်းသော နှစ်၊ လ၊ ရက်၊ နေ့၊ အချိန် ရွေးချယ်ခြင်းကား မမှားနိုင်သော အလုပ် ဟု ယူဆကြသည်။ ပုံပမာ ရေချိုးရာ၌ မကြီးကျယ်သော ကိစ္စဖြစ်သော်လည်း ‘ငါ့သားရွှေတောင်၊ ရေကို ရှောင်၊ အောင်စံဖိုး၊ ရေချိုးတော့’ အဆိုရှိသဖြင့် ယင်းလင်္ကာကို အက္ခရာနံသင့်အတိုင်းကောက်၍ တနင်္လာ၊ သောကြာ၊ ဗုဒ္ဓဟူး၊ စနေနေ့တို့၌ ရေမချိုးရ။ တနင်္ဂနွေ၊ အင်္ဂါ၊ ကြာသပတေးနေ့တို့၌ ရေချိုးရမည်။ အကယ်၍ ရေမချိုးရမည့်နေ့၌ ချိုးမိ၍ မကျန်းမာခြင်း သေဆုံးခြင်းဖြစ်ခဲ့သော် သာမှုမင်္ဂလာဖြစ်သော်လည်း နာမှု အမင်္ဂလာ ဖြစ်သွားတတ်သည်ဟု ယူဆကြသည်။

ထိုအတူ ‘က ရင် သား မွေး၊ ခေါင်းမဆေးနှင့်။ အိုးစည်တီး၊ ပြီးအောင်လျှော်’ အဆိုရှိသဖြင့် တနင်္လာ၊ ဗုဒ္ဓဟူး၊ သောကြာ၊ ကြာသပတေးနေ့တို့၌ ခေါင်းမလျှော်ရ၊ တနင်္ဂနွေ၊ အင်္ဂါ၊ စနေ တို့၌ ခေါင်းလျှော်ရမည်။ ‘လွန်း ပုံ သာ၊ ဝယ်ပါလေ။ အောင် ကျော် စံ နှောင်း၊ မဝယ်ကောင်း’အဆိုရှိသဖြင့် ဗုဒ္ဓဟူး၊ ကြာသပတေး၊ သောကြာနေ့တို့၌ ဝယ်ခြမ်းရမည်။ တနင်္ဂနွေ၊ တနင်္လာ၊ အင်္ဂါ၊ စနေနေ့တို့၌ မဝယ်ခြမ်းရ။ သည်တွင် မကသေး၊ သစ်ပင်စိုက်ရာမှာပင် ရွေးချယ်ကြသည်။ ‘တရက် နှစ်ရက်၊ ပိုးစားရက်။ ဆဲ့နှစ် ဆဲ့သုံး၊ ပေါင်းရုံးဆတ္တက်၊ ပိုးစားရက်’ အဆိုရှိသဖြင့် မည်သည့်လမဆို လဆန်းမှာ ဖြစ်စေ၊ လဆုတ်မှာဖြစ်စေ တရက်နေ့၊ နှစ်ရက်နေ့၊ဆဲ့နှစ်ရက်နေ့၊ဆဲ့သုံးရက်နေ့တို့၌ပိုးစားရက် ဖြစ်၍ သစ်ပင်မစိုက်ရ၊ စိုက်လျှင် ပိုးကျတတ်သည်။ ကြွင်းသောနေ့များ၌ စိုက်ရမည်။

အလှူပေးခြင်း၊ ရှင်ပြုခြင်း၊ ရဟန်းခံခြင်း၊ စေတီပုထိုးတည်ခြင်း၊ ကျောင်းဆောက်ခြင်း၊ ဇရပ်ဆောက်ခြင်း၊တန်ဆောင်းဆောက်ခြင်း၊ သိမ်ဆောက်ခြင်း၊ ရေကန်တူးခြင်း၊ ရေတွင်း တူးခြင်း စသော သာမှုခေါ် ကုသိုလ်ကောင်းမှုဆိုင်ရာ မင်္ဂလာတို့၌၎င်း၊ မြို့ ပြ ထီးနန်းတည်ခြင်း၊ ရွာတည်ခြင်း၊ အိမ်ဆောက်ခြင်း၊ ကျီကျဆောက်ခြင်း၊ ကင်ပွန်းတပ်ခြင်း၊ အမည်ပေးခြင်း၊ . လက်ထပ်ခြင်း စသော သာမှုခေါ် လူမှုဆိုင်ရာ မင်္ဂလာတို့၌၎င်း ကောင်းသည်ထက်ကောင်းရန် ဘေးရန် ကင်းရှင်း၍ ပြီးစီးအောင်မြင်ရန် ရည်ရွယ်ချက်ဖြင့် ကောင်းသော နှစ်၊လ၊ရက်၊နေ့၊အချိန်ကို ရွေးချယ်၍ ပြုလုပ်လေ့ ရှိကြသည်။ အကယ်၍ မရွေးချယ်ပဲ ပြုလုပ်မိသည့်အတွက် ချွတ်ယွင်းပျက်စီးသွားခဲ့သော် သာမှု မင်္ဂလာဖြစ်သော်လည်း နာမှု အမင်္ဂလာ ဖြစ်သွားတတ်သည်ဟု ယူဆကြသည်။

ထိုပြင် စေတီ ပုထိုး နန်း အိမ် စသော အဆောက်အဦ၌ လင်းတနားခြင်း၊ ဗျိုင်းနားခြင်း၊ ကျီးသာခြင်း၊ပျားနကျယ်စွဲခြင်း၊ တောင်ပို့ ပေါက်ခြင်း၊ မြေလျှောင်လှုပ်ခြင်း၊ တော်လည်းခြင်း၊ ဥက္ကာကျခြင်း၊ အချိန်မတော်ခွေးအူခြင်း၊ ကျီးပြိုခြင်း၊ ကြက်တို့ အိပ်တန်းဆင်းစော၍ အိပ်တန်းတက်နောက်ကျခြင်း စသည်တို့၌၎င်း၊ အိပ်မက် မြင်မက်ခြင်း၊ အသားလှုပ်ခြင်း၊ ထိုမှ တပါးသော တိတ်နိမိတ်များကို မြင်ခြင်း ကြားခြင်းစသည်တို့၌၎င်း အချိုးနေရာ၌ သာမှုမင်္ဂလာ၊ အချိုနေရာ၌ နာမှု အမင်္ဂလာ ဟု ယူဆကြသေးသည်။

လူများသေဆုံးကွယ်လွန်ခြင်းကား နာမှု အမင်္ဂလာဖြစ်သည်။ သေဆုံး ကွယ်လွန်ရာ၌ (၁) အဂ္ဂိစျာပန–မီးရှို့၍ သင်္ဂြိုဟ်ခြင်း၊ (၂) ဘူမိစျာပန–မြေ၌ မြှုပ်၍ သင်္ဂြိုဟ်ခြင်း၊ (၃) ဥဒက စျာပန–ရေ၌ မျှော၍ သင်္ဂြိုဟ်ခြင်းဟူ၍သုံးမျိုးရှိသည်။ ထိုသုံးမျိုးတို့တွင် ဘုရား၊ ပစ္စေက ဗုဒ္ဓါ၊ ရဟန္တာ၊ စကြာမင်း၊ သီလဝန္တ ပုထုဇဉ်ရဟန်းတို့၏ အလောင်းကို မီးရှို့၍ သင်္ဂြိုဟ်လေ့ ရှိကြသည်။ အကြောင်းကား မြေ၌ မြှုပ်၍ သင်္ဂြိုဟ်လျှင် မိုးခေါင်တတ်သည်။ ရေ၌ မျှော၍ သင်္ဂြိုဟ်လျှင် ရေကြီးတတ်သည် ဟု အယူရှိသောကြောင့် ဖြစ်သည်။ အခြားသူများ၏ အလောင်းကိုကား သုံးမျိုးလုံးပင် သင့်သလို ကြိုက်နှစ်သက်သလို သင်္ဂြိုဟ်ကြသည်။

အုတ်ဂူသွင်း၍လည်း သင်္ဂြိုဟ်သေး၏။ ယင်းကား မြေ၌ မြှုပ်၍ သင်္ဂြိုဟ်ခြင်းသဘော ဖြစ်သည်။ ရဟန်းများ အလောင်းကို အုတ်ဂူသွင်း၍ သင်္ဂြိုဟ်ခြင်းကား စေတီတည်ထားသည့်အလား အများ ကိုးကွယ်ရန် ရည်ရွယ်ခြင်း ဖြစ်သည်။

လူသေဆုံးရာ နာမှု၌ မျိုးရိုးဇာတိသို့ လိုက်၍ရင်း၊ အယူဝါဒသို့ လိုက်၍ရင်း၊ အရပ်ဒေသသို့ လိုက်၍ရင်း အမျိုးမျိုး ပြုလုပ် ကြသည်။ ပြုလုပ်ပုံ အမျိုးမျိုး ရှိရာ ဗုဒ္ဓဝါဒီများ သေဆုံးလျှင် ရှေးဦးစွာ ရေချိုးရသည်။ ရေအိုးသီးခြားဖြင့် ချိုးရသည်။ ယင်းရေအိုးကို ကျန်ရစ်သူများ မသုံးရ။ရေလုံအိုး ခေါ်သည်။စွန့်ပစ်ရသည်။နောက် သေဆုံးသူ၏ ပါးစပ်ထဲသို့ ငွေတမတ်တန်သည် ငါးမူးတန်သည် ကူးတို့ခ ထည့်ရသည်။ အလောင်း ပြင်ရသည်။ ပြင်သောအခါ ခေါင်းလျှောက်အလိုက် ထားရသည်။ မထားလျှင် လျှောက်ပြတ် ခေါ်သည်။ မထားကောင်း။ အလောင်းကို ခြေမနှစ်ခုပူး၍ လက်မနှစ်ခု ဗိုက်ပေါ်တင်ကာ ပူး၍ ကြိုးချည်ရသည်။ဗုဒ္ဓဝါဒီဖြစ်၍ ခေါင်းရင်းတွင် စားပွဲငယ်တခုနှင့်ဘုရားပန်းအိုး ထားရသည်။ ခေါင်းသွင်းသောအခါ ခြေမကြိုး လက်မကြိုးတို့ကို ဖြတ်ရသည်။ အချို့ ရက်ကူး၍မထားရ။ ထားလျှင် သုံးရက် ငါးရက်စသည် မ ရက်ထားရသည်။ စုံရက် မထားရ။ချသောအခါ ခြေထောက်ဖက်က ရှေ့ထား၍ ချရသည်။ အကယ်၍ ခေါင်းဖက်က ရှေ့ထား၍ ချမိလျှင် မြို့ရွာကို ခြေကန်နေသည့်အတွက် မြို့ရွာ နာသည်ဟု အယူရှိကြသည်။ မချမီ ချမည့်အဆောင်တွင် ဝါးဖြင့် ထုပ်ငှား လျှောက်ငှား ချည်ထားရသည်။ ဝါးကို လှေခါးသုံးထစ် ယာယီလုပ်၍ ချမည့် လှေခါးပေါ်တွင် ထားရသည်။ ချသွားသောအခါ ယခင် ထုပ်ငှား လျှောက်ငှားကို ဖြုတ်၍ ယာယီလှေခါး သုံးထစ်နှင့်တကွ ဖြုတ်၍ ထည့်လိုက်ရသည်။ယင်းသို့ ထည့်လိုက်ခြင်းကား သင့်မှာ အိမ်မရှိ၊ တက်ရန်လှေခါးမရှိ၊မလာနှင့်တော့ဟု ဆိုလိုရင်းဖြစ်သည်။ သုသာန်သို့ ချသွားသောအခါ ဆန်ပန်းပေါက်ပေါက် စာမြိန်စာထုပ်ကို ခေါင်းပေါ်တင်လိုက်ရသည်။ ဆန်ပန်း ပေါက်ပေါက်မှာ သုသာန်သို့ ရောက်လျှင် သင်္ဂြိုဟ်မည့်နေရာ၌ကြဲ၍ မြေတောင်းရန် ဖြစ်သည်။ စာမြိန်စာထုပ်မှာ သေဆုံးသူ စားရန် ဖြစ်သည်။ နောက် သရဏဂုံတင် ရေစက်ချ သေဆုံးသူအမည်ကိုခေါ်၍ အမျှဝေ။ သင်္ဂြိုဟ်နည်း သုံးမျိုးတွင် ကြိုက်နှစ်သက်သလို သင်္ဂြိုဟ်ရသည်။ ဆွမ်းသွတ်ခြင်းမှာ သေဆုံးပြီး သက်ပျောက် ဆွမ်းသွတ် တကြိမ်၊ ခုနစ်ရက် လည်သောအခါ ရက်လည်ဆွမ်းသွတ် တကြိမ်၊ နှစ်ကြိမ်လုပ်လေ့ရှိကြသည်။ ဤကား လုပ်ရိုးလုပ်စဉ်တည်း။

ကူးတို့ခ ထည့်ရခြင်းအကြောင်းကား ရှေးအခါက လူသေဆုံးသွားလျှင် ရက်ကူး၍ ထားလေ့မရှိ၊ နေ့ချင်း သင်္ဂြိုဟ်ကြသည်။ သင်္ဂြိုဟ်သောအခါ အလောင်းကို လူထမ်းခြင်း၊ ယာဉ်တင်ခြင်းမရှိ၊ ဖုတ်သွင်းတတ်သော မှော်ဆရာ၊ ပယောဂဆရာတို့က ဖုတ်သွင်း၍ ယောကျ်ားဖြစ်လျှင် အင်္ကျီနောက်ပြန်ဝတ်၊ ဆံပင်ဖားလျားချ၊ ပန်းနီကိုပန်၊ မိန်းမဖြစ်လျှင် ထမီ စောက်ထိုးဝတ်၊ ဆံပင်ဖားလျားချ၊ ပန်းနီကို ပန်၍ သုသာန်သို့ လွှတ်လိုက်သည်။ ယင်းသို့ ပြုလုပ်ခြင်းမှာ သုသာန်သို့သွားရာ လမ်းတွင် လူကောင်းများ တွေ့မြင်က ဖုတ်သွင်းထားသော လူသေမှန်း သိအောင် ပြုလုပ်ခြင်း ဖြစ်သည်။ လူသေအလောင်း သုသာန်ရောက်လျှင် သင်္ဂြိုဟ်မည့် သုသာန်စောင့်တို့က ဖုတ်သွင်းထားသော လူသေမှန်း သိသဖြင့် တုတ်ဖြင့် ရိုက်လိုက်ရာ ဖုတ်ထွက်သွား၍ လဲသွားသောအခါ ပါးစပ်တွင် ထည့်လိုက်သော ကူးတို့ခကို ယူ၍သင်္ဂြိုဟ်လိုက်ကြသည်။ ထည့်လိုက်သော ကူးတို့ခကား သင်္ဂြိုဟ်ခ ဖြစ်သည်ဟု ရှေးလူဟောင်းတို့ ပြောသည်ကို ကြားရဘူးသည်။

သင်္ဂြိုဟ်ရာ၌လည်း အမျိုးမျိုးရှိသည်။ မြို့ပြင် ရွာပြင်၌ သေသောသူကို မြို့တွင်း ရွာတွင်းသို့ ယူ၍ မသင်္ဂြိုဟ်ရ။ သင်္ဂြိုဟ်မိသော် မြို့ရွာ၌ အနာရောဂါ နှိပ်စက်တတ်၏။ ကြိမ်ဖန်များစွာ မီးလောင်တတ်သည်ဟု အဆိုရှိသည်။

ထိုပြင် တအိမ်တည်း၌ လူနှစ်ယောက် ရောဂါအသည်းအသန် ဖြစ်နေရာ တယောက်သေလျှင် သေသောသူကို ညဉ့်မသိပ်ရ၊ အကူ မခံရ၊ ဆွမ်း မကျွေးရ၊ မီးရှို့၍ကား သင်္ဂြိုဟ်ရ၏။ အသက်နှစ်ဆယ် မပြည့်သေးသောသူ သေလျှင် သေသောသူကို ညဉ့်မသိပ်ရ၊ အကူ မခံရ၊ ဆွမ်းမကျွေးရ၊ မီးရှို့၍ မသင်္ဂြိုဟ်ရ၊ မြေမြှုပ်၍ သင်္ဂြိုဟ်ရ၏။

တအိမ်တည်း၌ နေသူများတည်းတွင် ကိုယ်ဝန် ရှိလျက် လူသေလျှင် သေသောသူကို ညဉ့်မသိပ်ရ၊ အကူမခံရ၊ ဆွမ်းမကျွေးရ၊တရွာတည်းတွင်ရင်း၊တအိမ်တည်းတွင်ရင်း တနေ့တည်း၌ လူနှစ်ယောက်သေလျှင် နောက်မှ သေသောသူကို အကူမခံရ၊ အလျင် သေသော သူကိုသာ အကူခံရ၏။ နောက်မှ သေသောသူကို အလျင်ချရ၏။အလျင်သေသောသူကို နောက်မှချရ၏။

တစုံတခုသောလက်နက်ဖြင့် လတ်ဘလောသေသောသူကို အစိမ်းသေခေါ်သည်။အစိမ်းသေကို ညဉ့်မသိပ်ရ၊ အကူမခံရ၊ ဆွမ်းမကျွေးရ၊ မီးရှို့၍ မသင်္ဂြိုဟ်ရ၊ (တစုံတခုသောလက်နက် ထိရှသော်လည်း နေ့ ရက် လ ကြာမှသေသောသူကို အစိမ်းသေမခေါ်ရ။)

သင်္ကြန်အကျနေ့၊ အကြပ်နေ့၊ အတက်နေ့၊ လကွယ်နေ့၊ လဆန်းတရက်နေ့၊ လပြည့်နေ့၊ လဆုတ် တရက်နေ့၊ ယင်းနေ့တို့၌ သေသောသူကို နှစ်မကူးစေရ၊ လမကူးစေရ၊ ရက်မကူးစေရ၊ သေသောနေ့၌ပင် သင်္ဂြိုဟ်ရသည်။ (သေဆုံးရာ

၌ရှင်း၊ အလောင်းထားရာ၌ရှင်း၊ သင်္ဂြိုဟ်ရာ၌ရှင်း နည်းအမျိုးမျိုးရှိသည်။)

(ဤ သာမှုနာမှု၌ ပြဆိုခဲ့သော အယူအဆတို့ကား ရှေးသူဟောင်းတို့မှ ဆင်းသက်လာသော အယူအဆများဖြစ်သည်။ ဗဟုသုတအလို့ငှာ ထည့်သွင်းဖော်ပြခြင်း ဖြစ်ပေသည်။) ဦးကြီးဖေ

**သာမျှန်နစ်ပြွန်။** ။သာမျှန်နစ်ပြွန်အကြောင်းကို မရေးမီ'သာမျှန်'ဆိုသည့် စကားလုံး၏အဓိပ္ပာယ်ကို ရှေးဦးစွာ သိဖို့ လိုပေမည်။အရာဝတ္ထုတခုကို အပူတိုက်ပေးလိုက်လျှင် ထိုဝတ္ထုမှ လျှပ်စစ် အဖိုဓာတ်နှင့်အမဓာတ် ဝင်နေသော မှုန်ကလေးများလွင့်စဉ်၍ ထွက်လာသည်။ အမဓာတ်ဝင်နေသော မှုန်ကလေးများမှာ အီလက်ထရွန်များပင် ဖြစ်၏။ သာမန်ပူရုံမှ နီရဲလာအောင် ပူသည့်အချိန်အတွင်း၌ အဖိုဓာတ်ဝင်နေသောမှုန်များက အားကြီး၍ ထိုထက် အပူလွန်ကာ ဓာတ်မီးစာမျှင်ကဲ့သို့ အလင်းရောင် ထွက်လာသည် အထိပူလာသောအခါတွင်မူ အီလက်ထရွန်များကများပြားကြီးစိုးလာသည်။အထက်ပါ လျှပ်စစ်အဖိုနှင့် အမဓာတ် ဝင်နေသော မှုန်နှစ်မျိုးစလုံးကို 'သာမျှန်'များဟု သိမ်းကျုံးခေါ်ကြ၍ အပူကြောင့် ဖြစ်ပေါ်လာသော မှုန်များဟု အဓိပ္ပာယ်ရလေသည်။

လျှပ်စစ်ဓာတ်သည် သံလိုက်ဓာတ် နည်းတူ ဆန့်ကျင်ဖက်ဓာတ်ရှိရာသို့ လိုက်ပါလေ့ရှိ၏။ ထို့ကြောင့် အဆိုပါ အရာဝတ္ထုမှထွက်လာသော အီလက်ထရွန်များ အနီးတွင် လေထုတ်ထားသော ပြွန်၊ သို့မဟုတ် ဖန်သီးတလုံးအတွင်း၌ လျှပ်စစ်အဖိုဓာတ်ရှိသော ဓာတ်ခေါင်းတခုကို ထားပေးပါက အီလက်ထရွန်တို့သည် ထိုဓာတ်ခေါင်းရှိရာသို့ လိုက်ပါစီးသွားခြင်းဖြင့် 'သာမျှန်နစ်ကားရင့်'ဟု ခေါ်သော လျှပ်စစ်ဓာတ်စီးကြောင်းကို ဖြစ်ပေါ်စေသည်။

ပလာနယ်တွင် အပူတိုက်ပေးထားသော အရာဝတ္ထုမှ အဆိုပါ လျှပ်စစ်ဓာတ်စီးကြောင်း ထွက်ပေါ်လာတတ်ပုံကို တောမတ် အက်ဒီဆင်က ၁၈၈၃ ခုနှစ်၌ ရှေးဦးစွာ စတင်တွေ့ရှိခဲ့၍ ဂျေ ဂျေ သွန်မဆင်ကလည်း ယင်း ဓာတ်စီးကြောင်း၏ ဂုဏ်သတ္တိများကို နိုက်နိုက်ချွတ်ချွတ် လေ့လာခဲ့၏။ သို့သော် ၁၉၀၅ ခုနှစ်သို့ရောက်မှ အမ်ဗရို့ ဖလင်မင်က 'ရက်တီဖိုင်းယား' ခေါ် ဓာတ်စီးပြောင်းစက်တခုကိုတီထွင်ခြင်းဖြင့် ပဌမဦးစွာ လက်တွေ့ အသုံးချနိုင်လာသည်။ ထိုမှ တဖန် တိုးတက်လာသော တယ်လီဖုန်းနှင့် ရေဒီယို ပညာများကြောင့် သာမျှန်နစ်ပြွန်ဟု တွင်သော ပြွန်အမျိုးမျိုး ပေါ်ပေါက်လာလေသည်။ (ရက်တီဖိုင်းယား — ရှု။)

သာမျှန်နစ်ပြွန်ဟု တွင်ခြင်းမှာ သာမျှန်နစ် ဓာတ်စီးကြောင်းကို အသုံးချထားသည့် အတွက်ပင် ဖြစ်၏။ ပြွန်ထဲရှိ လေထုကို ထုတ်ထားသည့်အတွက် 'ပလာပြွန်' ဟူ၍လည်း တွင်လေသည်။လျှပ်စစ်ခေတ်၌ ထွန်းကားလာသော စက်ကရိယာများအနက် သာမျှန်နစ်ပြွန်များသည် ဒိုင်နမို နှင့် ထရန်စဖော်မားတို့မှလွဲလျှင် အရေးအကြီးဆုံးပင် ဖြစ်သည်ဟု ဆိုနိုင်သည်။ ဤပြွန်မျိုးသာ မဖြစ်ထွန်းသေးပါက ရေဒီယိုနှင့် အဝေးပြောတယ်လီဖုန်းတို့သာမဟုတ်၊ ရေဒါ၊ တယ်လီဗစ်ရှင်းနှင့်တကွ အခြားအသုံးအဆောင်များလည်း ယခုတိုင်အောင် ပေါ်ပေါက်နိုင်ကြဦးမည် မဟုတ်ချေ။

သာမျှန်နစ်ပြွန်များတွင် 'ဒိုင်အုတ်ပြွန်'နှင့် 'ထရိုင်အုတ်ပြွန်' ဟူ၍ ပြွန်နှစ်မျိုး ရှိသည်။ နှစ်မျိုးစလုံးပင် ပလာပြွန်ချည်း ဖြစ်၏။ သို့သော် ဒိုင်အုတ်ပြွန်တွင် ဓာတ်မီးစာမျှင်မျိုးတခုနှင့် အခြားသတ္တုပြားဓာတ်ခေါင်းတခု ပေါင်း နှစ်ခုသာ ရှိ၍ ထရိုင်အုတ်ပြွန်တွင် အဆိုပါ ဓာတ်ခေါင်းနှစ်ခုကြား၌ ဓာတ်လိုက်ဆန်ခါဓာတ်ခေါင်းတခုကို အပိုတပ်ဆင်ထားသည်။ ဤပြွန်များ၏အတွင်း ဖြစ်ပျက်ပုံ သဘောနှင့် ယင်းတို့၏ သတ္တိများကို အောက်တွင် ဆက်လက်၍ ဖော်ပြလိုက်သည်။

ဒိုင်အုတ်ပြွန်တွင် ဓာတ်မီးစာမျှင်ကို လျှပ်စစ်ဓာတ် စီးဖြတ်စေပြီး အလင်းရောင် ထွက်အောင် ပူလာသောအခါ မီးစာမျှင်မှထွက်သော အီလက်ထရွန်များသည် ထိုဓာတ်ခေါင်းတို့နှင့် မည်သို့မျှ ဆက်သွယ်မှု မရှိချေ။ သို့သော် ဓာတ်ခေါင်းကို ဗက်ထရီနှင့်ဆက်၍ လျှပ်စစ် အဖိုဓာတ်ပေးလိုက်ပါက အထက်တနေရာတွင် ဖော်ပြခဲ့သည့်အတိုင်း လျှပ်စစ်အမဓာတ်ဝင်နေသော အီလက်ထရွန်တို့သည် အဖိုဓာတ်ရှိရာသို့ စီးခြင်းကြောင့် သာမျှန်နစ်ဓာတ်စီးကြောင်း တခု ဖြစ်ပေါ်လာတော့သည်။ ဤဓာတ်စီးကြောင်းသည် ဓာတ်မီးစာမျှင်မှ ဓာတ်ဖိုခေါင်း ရှိရာသို့သာ တဖက်သတ်စီးသည်။ တနည်းအားဖြင့် တဖက်တည်းကိုသာ သွားခွင့်ပြုသော အဆို့ရှင်ကဲ့သို့ ပြုမူ၏။ ထို့ကြောင့် ဤဒိုင်အုတ်ပြွန်မျိုးကို ပြန်လှန်စီးသော လျှပ်စစ်ကြောင်းမှ တဖက်သတ်စီးသော လျှပ်စီးကြောင်းသို့ ပြုပြင်ပြောင်းလဲပေးနိုင်သည့် 'ရက်တီဖိုင်းယား'အဖြစ် အသုံးချနိုင်လေသည်။

ထရိုင်အုတ်ပြွန်ကို လီ ဒါ ဖောရက် ဆိုသူ ပုဂ္ဂိုလ်တဦးက ၁၉၀၇ ခုနှစ်၌ တီထွင်ခဲ့သည်။ဤပြွန်တွင် ဆိုခဲ့သည့်အတိုင်း ဓာတ်လိုက်ဆန်ခါသဖွယ်ဖြစ်သော တတိယ ဓာတ်ခေါင်း တခု အပိုပါ၍ ယင်းကို 'ဂရစ်' ဟု ခေါ်၏။ ရှေးဦးစွာ ဒိုင်အုတ်မှာကဲ့သို့ ဓာတ်မီးစာမျှင်မှ အီလက်ထရွန်များ ဓာတ်ဖိုခေါင်းဖြစ်သော သတ္တုပြားဆီသို့စီးအောင်ပြုလုပ်ပြီးနောက် ဂရစ်ကို လျှပ်စစ်အမဓာတ်ပေးထားမည်ဆိုပါက အမဓာတ် ဝင်နေသော အီလက်ထရွန်များကို ဂရစ်ရှိ အမဓာတ်က လမ်းမှနေ၍ တွန်းကန်လိုက်သည့် အတွက် အီလက်ထရွန် အားလုံး လိုလိုပင် ဓာတ်ဖိုခေါင်းရှိရာသို့ မရောက်နိုင်ကြ

တော့ချေ။ ထိုအခါ ခေါတ်ဖိုခေါင်းနှင့်သက်ဆိုင်သော လျှပ်စစ် ဆာကစ်ရှိ ခေါတ်စီးကြောင်းသည် အစီးရပ်လုမတတ်ဖြစ်အောင် အားသော်လည်း နည်းသွားရ၏။ သို့မဟုတ် လုံးဝသော်လည်း ရပ်သွားရ၏။ သို့သော် ဂရစ်ကို လျှပ်စစ်အဖိုခေါတ်ပေးလိုက်လျှင်ကား ရှိရင်းစွဲ ခေါတ်ဖိုခေါင်းအပြင် ခေါတ်ဖိုခေါင်းတခု ထပ်တိုးလာသည့်အတွက် အီလက်ထရွန်စီးကြောင်းသည်ဆထက်ထမ်းပိုးတိုး၍ကြီးမားအားကောင်းလာသည့်အတိုင်း အဖိုခေါတ်ခေါင်းနှင့် သက်ဆိုင်သည့် ဆာကစ်ရှိ ခေါတ်စီးကြောင်းသည်လည်း အဆပေါင်း များစွာ အားကောင်းလာရပေသည်။ ထို့ကြောင့် ထရိုင်အုတ်ပြွန်ကို 'အမ်ပလီ ဖိုင်းယား' ခေါ် ခေါတ်အားချဲ့ကရိယာအဖြစ်ဖြင့် အသုံးချနိုင်သည်။ ထရိုင်အုတ်ပြွန်အများကို ဆက်သွယ်အသုံးပြုခြင်းဖြင့် အလွန်သေးငယ်သော လျှပ်စီးကြောင်းများက အဆပေါင်း သိန်းသန်းမက ကြီးမားလာသည်အထိ ချဲ့ယူနိုင်လေသည်။

သာမျှန်နစ်ပြွန်ကို တမျိုးတမည်စီမံပေးခြင်းဖြင့်'ဟိုင်းဖရီကွင်စီကားရင့်'ခေါ် တုန်ကြိမ်အလွန်များသော လျှပ်စစ်ခေါတ်မျိုးကိုလည်း ဖန်တီးပေးနိုင်လေသည်။

အသုံးကိစ္စကိုလိုက်၍အမျိုးမျိုးပုံပြင်တီထွင်ထားသော သာမျှန်နစ်ပြွန်ပုံစံများမှာ ထောင်နှင့်ချီ၍ပင် ရှိ၏။ အချို့တွင် ဂရစ် သုံးလေးငါးခုပါ၍ အချို့တွင်လည်းခေါတ်ဖိုခေါင်း နှစ်ခု သုံးခု ပါကြသည်။ အချို့မှာ လဖက်ရည် ဇွန်းထဲသို့ နှစ်ခု သုံးခု ပူးတွဲ ထည့်ထားနိုင်လောက်အောင် သေးငယ်၍ အချို့မှာလည်း လူနှစ်ယောက် သုံးယောက် ပင့်ရလောက်အောင် ကြီးမားပေသည်။ ထိုသို့ အသုံးကိစ္စ ကွဲလွဲကြသော်လည်း အခြေခံသဘောမှာမူ အားလုံးအတူတူပင်ဖြစ်ကြလေသည်။

**သာယာဝတီခရိုင်။** ။သာယာဝတီ ခရိုင်သည် မြန်မာနိုင်ငံအောက်ပိုင်း ပဲခူးတိုင်းတွင်ပါဝင်၍ ၂,၇၈၂ စတုရန်းမိုင်ကျယ်ဝန်းသည်။ ခရိုင်၏ နယ်နိမိတ်တို့မှာ မြောက်ဖက်၌ ပြည်ခရိုင်၊ အရှေ့ဖက်၌ ပဲခူးရိုးမ၊ တောင်ဖက်၌ မှော်ဘီခရိုင်၊ အနောက်ဖက်၌ ဧရာဝတီမြစ်ဖြစ်သည်။ ခရိုင်အတွင်း၌ ၁၉၇၁ ခုနှစ် ခန့်မှန်း စာရင်းအရ လူဦးရေ ၈၁၈,၀၀၀ ယောက် ဖြစ်၍ အတော်အတန် လူဦးရေ ထူထပ်သော ခရိုင်တခုဟု ဆိုရပေမည်။

ခရိုင်၏ မြေမျက်နှာပြင်သည် မြေနုမြေပြန့် များပြားသည်။ အနောက်ဖက် နယ်နိမိတ်အနီး ဧရာဝတီမြစ်နှင့် နီးကပ်သောအပိုင်းသည် နုံးမြေ လတာပြင်ကြီး ဖြစ်သည်။ ခရိုင်၏ အရှေ့ဖက်တွင် ပဲခူးခရိုင်နှင့် သာယာဝတီခရိုင်တို့ကို ပိုင်းခြားပေးသော ပဲခူးရိုးမသည် ထိုနေရာ၌ အမြင့်ပေ ၂,၀၀၀ ခန့်သာရှိသည်။ ထိုတောင်ရိုးသည် ဧရာဝတီမြစ်ဝှမ်းနှင့် စစ်တောင်းမြစ်ဝှမ်း တို့ကိုလည်း ပိုင်းခြားထားသကဲ့သို့ ရှိပြီးလျှင် တောင်စောင်းများ၌ သစ်တောများ ထူထပ်စွာ ဖုံးအုပ်နေသည်။ ဧရာဝတီမြစ်သည် တောင်ဖက်နှင့် အရှေ့တောင်ဖက်ယွန်းယွန်း စီးဆင်းလာရာ ခရိုင်၏ နယ်နိမိတ်အဖြစ် စီးဆင်းသော အစိတ်အပိုင်း၏အလျားသည် ၆၄ မိုင်ခန့် ရှိသည်။ ထိုအစိတ်အပိုင်းသည် သာယာဝတီခရိုင်နှင့် ဟင်္သာတခရိုင်တို့ကို ပိုင်းခြားထားလေသည်။

ခရိုင်အတွင်း အခြားအရေးပါသောမြစ်တမြစ်မှာမြစ်မခဖြစ်သည်။ ထိုမြစ်သည်ပြည်ခရိုင်တောင်ပိုင်းရှိ အင်းမဟုခေါ်သော အင်းအိုင်တခုတွင် မြစ်ဖျားခံ၍ တောင်ဖက်သို့ ၅၃ မိုင်ခန့် စီးဆင်းပြီးနောက်တွင် မြစ်ကျိုးရွာ၌ မှော်ဘီခရိုင်အတွင်းသို့စီးဝင်ရာ ထိုနေရာမှစ၍ လှိုင်မြစ်ဟု အမည်တွင်သည်။ ထိုနောက် တောင်ဖက်သို့ ဆက်လက် စီးဆင်းလာသောအခါ ရန်ကုန်မြစ်ဟုလည်း ခေါ်တွင်သည်။ မြစ်မခမြစ်သည် သာယာဝတီ ခရိုင်အတွင်းမှ သစ်များ မျှောချရန် အရေးပါသော မြစ်ဖြစ်လေသည်။

ခရိုင်အတွင်း၌ နေရာများစွာတို့တွင် ဂဝံကျောက်များ ထွက်ရှိသည်ကို တွေ့ရသည်မှတပါး အခြားအဖိုးတန် မြေတွင်း သယံဇာတပစ္စည်းများ မထွက်ချေ။

ရာသီဥတုမှာ အပူဆုံးလများဖြစ်သော ဧပြီလနှင့်မေလများတွင် ဖာရင်ဟိုက် ၁၀၇ ဒီဂရီအထိ အပူချိန် တက်၍ ဆောင်းရာသီအခါ ဖာရင်ဟိုက် ၅၀ ဒီဂရီခန့် အထိ အပူချိန်ကျဆင်းသော်လည်း နှစ်စဉ်မိုးရေချိန် ပျမ်းမျှခြင်း ၈၈ လက်မမျှ ရှိသဖြင့် သာယာဝတီ ခရိုင်သည် ပူပြင်းခြောက်သွေ့သည်ဟု မဆိုနိုင်ပေ။ သို့သော် ခရိုင်၏ မြောက်ဖက်ပိုင်းသို့ ရောက်လေလေ၊ မိုးရေချိန် နည်းပါးလာလေလေ ဖြစ်သည်။

ခရိုင်အတွင်း မိုးရေချိန် သင့်တင့်စွာ ရရှိ၍ မြေနိမ့်မြေပြန့်ပိုင်းသည် နုံးတင်မြေနုများ များပြားသဖြင့် မြေသြဇာ ကောင်းမွန်သောကြောင့် သာယာဝတီ ခရိုင်သည် စိုက်ပျိုးရေးကောင်းမွန်သော ခရိုင်တခု ဖြစ်သည်။ ဆန်စပါးကို အဓိကထား၍ စိုက်ပျိုး လုပ်ကိုင်သည်။ ဆန်စပါး၏နောက် စိုက်ပျိုး လုပ်ကိုင်ကြသော ကောက်ပဲသီးနှံတို့မှာ ပြောင်း၊ ပဲကြီး၊ ပဲကျား၊ ကုလားပဲ စသော ပဲအမျိုးမျိုး၊ နှမ်း၊ မြေပဲ၊ ဆေး၊ ငရုတ်၊ ကြက်သွန်၊ ကြံ၊ ငှက်ပျောနှင့် ဟင်းသီး ဟင်းရွက်များ ဖြစ်ပေသည်။ ပဲအမျိုးမျိုးနှင့် ငရုတ်၊ ကြက်သွန်၊ ဆေးရွက်တို့ကို မြစ်ကမ်းဘေး လတာပြင်များ၌ စိုက်ပျိုး လုပ်ကိုင်ကြသည်။ ဟင်းသီး ဟင်းရွက်များ၊ သစ်သီး သစ်ဥနှင့်ကြံတို့ကို ကုန်းပိုင်း ပို၍မြင့်သောဒေသများ၌ ခြံဥယျာဉ်များဖြင့် စိုက်ပျိုးကြသည်။ ပဲခူးရိုးမ၏ တောင်စောင်း ခြေရင်းတွင် ရှမ်းလူမျိုးအချို့တို့သည် အချို့က တောင်ယာများ လုပ်ကိုင်၍ ဝါ၊ ပြောင်း၊ ပိန်းဥ၊ မြောက်ဥတို့ကို စိုက်

ပျိုးကြသည်။ ခရိုင်၏ တောင်ဖက် သဲဆံသော မြေမျိုး ရှိသည့် အရပ်ဒေသများတွင် မြေပဲခင်းများကို တွေ့ရလေသည်။

သာယာဝတီခရိုင်အတွင်း ရောဝတီမြစ်နှင့် မြစ်မခမြစ်ဝှမ်း တလျှောက်တွင် အင်းများရှိသည်။ ထိုပြင် ကုန်းတွင်းကျသော ဒေသများ၌လည်းအင်းများရှိ၍ အင်းလုပ်ငန်းသည် သာယာဝတီခရိုင်၏ အရေးပါသော လုပ်ငန်းတရပ် ဖြစ်သည်။ ဝင်ငွေကောင်းသော နာမည်ကြီးအင်း နှစ်အင်းမှာ တပင်ချောင်းနှင့် ကြာဖက်အင်းတို့ ဖြစ်လေသည်။

သာယာဝတီ ခရိုင်သည် သစ်တော ထူထပ်သော ဒေသ ဖြစ်ခဲ့သော်လည်း ယခုအခါ လူနေအိမ်ခြေ တိုးချဲ့လာသဖြင့် ၎င်း၊ စိုက်ပျိုးရေးကို တိုးချဲ့လုပ်ကိုင်လာကြသဖြင့်၎င်း သစ်တော ဧရိယာများ ယုတ်လျော့လာလေသည်။ ယခင်က ခရိုင်အတွင်း၌ ကြိုးဝိုင်းသစ်တော ဧရိယာ စတုရန်းမိုင် ၇၃၆ ရှိခဲ့၍ အပ သစ်တော စတုရန်းမိုင် ၆၁၃ ရှိခဲ့သည်။ပဲခူးရိုးမ၏ အနောက်ဖက်တောင်စောင်းများတွင် ကျွန်းတောကြီးများ ရှိ၍ ထိုကျွန်းတောများမှ အမျိုးအစားကောင်းသောကျွန်း သစ်များ ရရှိသည်။ကျွန်းတောဟုဆိုရသော်လည်း ပျဉ်းကတိုး၊ပျဉ်းမ၊ လင်းကျော် စသည့်အခြားသစ်မာတို့လည်းရောနှော၍ပေါက်ရောက်သည်။ ဝါးတောများကိုလည်း တွေ့ရသည်။ ဆိုခဲ့သောရိုးမတောင်များ၏အစွန် ဂဝံကျောက်မြေမျိုးတို့တွင်ပေါက်ရောက်သော အင်တိုင်းတောများအတွင်း၌ အင်၊အင်ကြင်း၊သစ်ယာစသည်တို့ပေါက်ရောက်သည်။နုံးတင်မြေနုများ၌ ပေါက်ရောက်သော မြေပြန့်သစ်တောများသည် မိုးရာသီအခါ၌ ရေမြုပ်နေတတ်သည်။ ထိုတောမျိုး၌ ကျွန်းပင်များကို တွေ့ရခဲ၍ တွေ့ရသည်တိုင်အောင် အမျိုးအစား ညံ့လေသည်။ မြစ်မခ မြစ်ကမ်းပေါ်ရှိ စံရွှေရွာတွင် ရန်ကုန်သို့ မျှောချသည့် သစ်များကို တိုင်းတာပြီးမှ ဆက်လက်မျှောချရသည်။ ခရိုင်အတွင်း၌လည်း သစ်စက်များ ရှိသည်။ ခရိုင်၏မြောက်ဖက် မိုးပါးသော ဒေသရှိ သစ်တောများမှ ရှားစေး အမြောက်အမြား ထွက်လေသည်။

သာယာဝတီ ခရိုင် အတွင်း နေထိုင်ကြသော တိုင်းရင်းသား လူမျိုးများတွင် မြန်မာတို့သည် လူဦးရေ အများဆုံး ဖြစ်၍ ကရင်လူမျိုးတို့ကိုလည်း အတော်အသင့် များပြားစွာ တွေ့ရသည်။ ထိုပြင် ရှမ်းလူမျိုးများကိုလည်း ကွက်တိ ကွက်ကျား တွေ့ရသည်။ ပဲခူး၊ မှော်ဘီ ခရိုင်များနှင့် နီးစပ်သော်လည်း မွန်လူမျိုးများကို မတွေ့ရချေ။ အခြား ခရိုင်များနည်းတူ နိုင်ငံခြားသား တရုပ်၊ အိန္ဒိယ စသော အမျိုးသားများလည်း ရှိသည်။ ခရိုင်၏ လူဦးရေ ၇၆ ရာခိုင်နှုန်းသည် လယ်ယာစိုက်ပျိုးရေးဖြင့် အသက်မွေးဝမ်းကျောင်းကြသည်။ အခြားလုပ်ငန်းများမှာ သစ်လုပ်ငန်းမှ လွှဲလျှင် ရက်ကန်း ရက်ခြင်း(အထူးသဖြင့် ဇီးကုန်းမြို့နယ်၌) နှီးချောဖျာရက်ခြင်း၊ဝါးထရံရက်ခြင်း စသော အိမ်တွင်းမှု လုပ်ငန်းများကို လုပ်ကိုင်ကြလေသည်။

အုပ်ချုပ်ရေးတွင် သာယာဝတီခရိုင်ခွဲနှင့် ဇီးကုန်းခရိုင်ခွဲ ဟူ၍ ခွဲခြားထားသည်။ ဇီးကုန်းခရိုင်ခွဲသည် မြောက်ဖက်ပိုင်း ကျ၍ ဇီးကုန်း၊ ကြို့ပင်ကောက်၊ နတ္တလင်းနှင့် မိုးညိုမြို့နယ်တို့ ပါဝင်သည်။ သာယာဝတီခရိုင်ခွဲတွင် သာယာဝတီ၊ လက်ပံတန်း၊ မင်းလှနှင့် အုတ်ဖိုမြို့နယ်တို့ ပါဝင်လေသည်။

ဆဲ့ရှစ်ရာစုနှစ်က သာယာဝတီ ဟု ခေါ်တွင်သော ဒေသသည် ရောဝတီမြစ်နှင့် ပဲခူးရိုးမ အကြားတွင် ရှိ၍ မင်းညီမင်းသားတို့ အပိုင်စားရသော ကံကျေး နယ်တနယ် ဖြစ်ကြောင်း သိရသည်။ ထိုနယ်သည် မြောက်ဖက် တူးမြောင်းချောင်းမှသည် တောင်ဖက် သုံးဆယ်ချောင်းအထိ မိုင် ၃၀ ခန့်ရှည်၍ အကျယ်အားဖြင့် မိုင် ၉၀ ခန့် ဟု အကြမ်းဖျင်း ခန့်မှန်းရသည်။ ယင်းဒေသကို တိုက်နယ် ၂၀ ပိုင်းခြားပြီးလျှင် ထိုတိုက်နယ်တို့သည် သာယာဝတီမြောက်ပိုင်းနယ်တွင် တစု၊ သာယာဝတီ တောင်ပိုင်းနယ်တွင် တစု ပါဝင်ကြသည်။ သာယာဝတီနယ် မြောက်ပိုင်းနှင့် တောင်ပိုင်းကို စစ်ကဲကြီး တဦးစီက အုပ်ချုပ်ရ၍ မြောက်ပိုင်း၏ ရုံးစိုက်မြို့သည် မင်းကြီးမြို့ဟု ခေါ်တွင်လျက် တောင်ပိုင်း၏ ရုံးစိုက်မြို့သည် မိုးညိုမြို့ ဖြစ်သည်။

သာယာဝတီဟု ခေါ်တွင်ခဲ့ခြင်းမှာ သာရဝတ္တ ဟူသော ပါဠိစကားမှ ဆင်းသက်လာ၍ ပေါများ ကြွယ်ဝခြင်း ဟူသော အနက်ကို ဆောင်သည်။ သာယာဝတီ ခရိုင်အတွင်း သစ်တောများ ပေါများခြင်း၊ ဆန်စပါး အထွက်များခြင်းတို့ကြောင့် အခွန်အတုတ် အများအပြား ရရှိနိုင်ခြင်းကို အကြောင်းပြု၍ မှည့်ခေါ်သည် ဟု ဆိုကြသည်။ ရှေးက သာယာဝတီသည် ဟံသာဝတီ မွန်တိုင်းပြည်၏ တစိတ်တဒေသ ဖြစ်ခဲ့ရာ အလောင်းမင်းတရားကြီး လက်ထက် ခရစ်နှစ် ၁၇၅၃ ခုတွင်မှ မြန်မာနိုင်ငံတွင်းသို့ ကျရောက် ခဲ့ခြင်း ဖြစ်ပေသည်။

ဆဲ့ကိုးရာစုနှစ်အစပိုင်းလောက်တွင် ကုန်းဘောင်ဆက်မင်း တပါးဖြစ်၍ နောင်အခါ သာယာဝတီမင်း ဟူ၍၎င်း၊ ရွှေဘိုမင်းဟူ၍၎င်း၊ကုန်းဘောင်မင်းဟူ၍၎င်း ဘွဲ့နာမံဖြင့်ထင်ရှားသော မင်းသည် အိမ်နိမ့်စံ ဘဝတွင် သာယာဝတီနယ်ကို အပိုင်စားခဲ့ရသဖြင့် သာယာဝတီမင်းသားဟု ခေါ်ဝေါ်ကြသည်။ အထွတ်အထိပ်သို့ ရောက်လာသည့် နောက်တွင်လည်း ယင်းသည်ကို အကြောင်းပြု၍ သာယာဝတီမင်း ဟု ခေါ်တွင်ခဲ့ခြင်း ဖြစ်လေသည်။

ထိုမင်းသည် မင်းသားဘဝတွင် နောင်တော် ဘကြီးတော် မင်းတရားအား နန်းချရန် သာယာဝတီနယ်အတွင်းရှိ ယခု မြို့တွင်းဟု ခေါ်ဝေါ်ကြသော အရပ်တွင် လာရောက် နေထိုင်ကာလူသူလက်နက်စုဆောင်းခဲ့သည်ဟုဆိုလေသည်။

မြို့တွင်း၌ မင်းသား လာရောက် စံမြန်း နေထိုင်ခဲ့ဘူးသဖြင့် ကျုံးနှင့်မြို့ရိုး အပျက်အစီးများကို တွေ့ကြရသည်။ မြို့တွင်းကို သာယာဝတီဟုလည်း ခေါ်ဝေါ်ကြရာ နောင်အခါ အင်္ဂလိပ်မင်းတို့ လက်ထက်တွင် ခရိုင်ရုံးစိုက်မြို့၏ အမည်ကို ရွေးချယ်သောအခါ ထိုအမည်ကို ယူခြင်းဖြစ်သည်ဟုလည်း အချို့ကဆိုကြသည်။

၁၈၅၂ ခုနှစ်တွင်မူ ထိုနယ်ကို သာရဝေါ၊ မြန်အောင်နယ်တို့နှင့် ပူးပေါင်းကာ သာရဝေါခရိုင်ဟု ခေါ်တွင်၍ ဦးပိုအမည်ရှိသော မြို့ဝန်တဦးက အုပ်ချုပ်လေသည်။ ဒုတိယ အင်္ဂလိပ်-မြန်မာ စစ်ပွဲအပြီးတွင် ပဲခူးတိုင်းကို အင်္ဂလိပ်တို့ သိမ်းပိုက်လိုက်သောအခါ သာရဝေါခရိုင်သည်လည်း အင်္ဂလိပ်အစိုးရ လက်အောက်ခံ ဖြစ်လာလေသည်။

အင်္ဂလိပ် အစိုးရသည် ၁၈၅၄ ခုနှစ်တွင် သာရဝေါ ခရိုင်အတွင်းမှ ဧရာဝတီမြစ် အရှေ့ဖက်ကမ်း တလျှောက်ကို သာယာဝတီ ခရိုင် အဖြစ် သတ်မှတ်ပိုင်းခြား၍ ခွဲထုတ်လိုက်ပြီးလျှင် ရေခင်းတွင် ရုံးစိုက်မြို့ ထားရန် စီစဉ်သည်။ သို့သော် ရေခင်းသည် မိုးရာသီအခါ ခြေခင်း လက်ခင်း မသာယာသဖြင့် နှစ်မိုင်ခန့် ကုန်းတွင်းဖက်ကျသော မင်းကြီးရွာတွင် အစိုးရရုံး၊ ထောင် စသည့် အဆောက်အအုံများကို ဆောက်လုပ်ရသည်။ သို့သော် နယ် အခြေအနေ မငြိမ်မသက် ရှိနေသဖြင့် အုပ်ချုပ်ရေး လွယ်ကူစေရန် ၁၈၆၁ ခုနှစ်တွင် သာယာဝတီခရိုင်ကိုဟင်္သာတခရိုင်နှင့်ပူးပေါင်းလိုက်ပြီးလျှင် ဟင်္သာတတွင်၎င်း၊ မြန်အောင်တွင်၎င်း ခရိုင်ရုံးစိုက်ခဲ့သည်။ နယ် အခြေအနေ အတော်အတန် ငြိမ်သက်လာသောအခါ ၁၈၇၃ ခုနှစ်တွင် သာယာဝတီကို သီးသန့်ခရိုင်အဖြစ် ဟင်္သာတ ခရိုင်မှ ခွဲထုတ်ပြန်လေသည်။

သာယာဝတီခရိုင်၏ နယ်နိမိတ် အပိုင်းအခြားသည်၎င်း၊ ခရိုင်၏ မြို့နယ်များသည်၎င်း အမျိုးမျိုး အပြောင်း အလဲ ရှိခဲ့သည်။ သီးသန့်ခရိုင် ဖြစ်လာသောအခါ ရုံးစိုက်မြို့အဖြစ် ထားရန်မြို့ကို ရွေးချယ်ကြသည်။ မီးရထားလမ်း မြို့များ ဖြစ်သော သုံးဆယ်၊ လက်ပံတန်း စသည်တို့ကိုလည်း အုပ်ချုပ်ရေးအတွက် အချက်အချာမကျ ဟူ၍ အာဏာပိုင်များက သဘောမကျချေ။ ၁၈၇၈ ခုနှစ်တွင်မှ ယခု သာယာဝတီမြို့ တည်ထားသော နေရာကို ရွေးချယ် သတ်မှတ်ကြသည်။ ထိုနေရာကို အုပ်ချုပ်ရေး လွယ်ကူမှုအတွက် ရုံးစိုက်မြို့တည်ရန် ရွေးချယ်ခဲ့သော်လည်း ယင်းနေရာမှ တောင်ဖက် နှစ်မိုင်ကွာတွင် ရှိသော သုံးဆယ်မြို့သည် အရောင်းအဝယ် အချက်အချာကျသဖြင့် အိမ်ခြေပိုမိုများပြား၍စည်ကားလေသည်။

ခရိုင်အတွင်း၌ ကြို့ပင်ကောက်၊ လက်ပံတန်း၊သုံးဆယ်၊ နတ္တလင်း၊ ဇီးကုန်းနှင့် မင်းလှမြို့များတွင် မျူနီစီပယ် အဖွဲ့များ ရှိသည်။ သာယာဝတီခရိုင် ဒေသန္တရကောင်စီအဖွဲ့ကို ၁၉၂၂ ခုနှစ်တွင် စတင် ဖွဲ့စည်းခဲ့လေသည်။

ခရိုင်၏ ထွက်ကုန်များဖြစ်သော ဆန်စပါး၊ သစ်၊ ဝါး၊ ငရုတ်၊ ကြက်သွန် စသည်တို့ကို ရန်ကုန်မြို့သို့ အများဆုံး တင်ပို့ကြလေသည်။

ကူးသန်း သွားလာရေးအတွက် ခရိုင်အတွင်း၌ ရေလမ်း ကုန်းလမ်း နှစ်မျိုးလုံးကိုပင် အသုံးပြုကြသည်။ ရေလမ်းတွင် မြစ်မခမြစ်သည် အသုံးဝင်ဆုံးဖြစ်သည်။မီးရထားလမ်းများမဖွင့်မီက ဆန်စပါး စသော ခရိုင်မှ ထွက်ကုန်ပစ္စည်းများ ရန်ကုန်သို့ သယ်ယူ ပို့ဆောင်ရေး အတွက် ထိုမြစ်ကြောင်းကိုပင် အသုံးပြုကြရသည်။ မီးရထားလမ်း ဖွင့်ပြီးနောက်တွင် ရန်ကုန်နှင့် ဆက်သွယ်ရေး အတွက် ထိုမြစ်ကြောင်းကို အသုံးနည်းသွားသော်လည်း လက်ပံတန်းမြို့ဈေးသို့ ပို့ဆောင်သည့် ကုန်စိမ်းနှင့် သားငါးများကို ထိုမြစ်ကြောင်းဖြင့် ပို့ဆောင်ကြလေသည်။ တောင်ညို၊ ဘီးလင်း၊ ကတင်းချောင်းတို့ကိုမူ သစ်မျှောချောင်းများအဖြစ် အသုံးပြုကြသည်။ ဧရာဝတီမြစ်သည် ခရိုင်၏အနောက်ဖက် နယ်နိမိတ် ဖြစ်ပေရာ ထိုမြစ်ကြောင်းအတွင်း ကူးသန်းသွားလာနေကြသော ပ-ရ-သ-ဖ သင်္ဘောများလည်း ရှိလေသည်။

ခရိုင် အတွင်း ကုန်းလမ်းခရီးအတွက် မီးရထားလမ်းကိုသော်၎င်း၊ မော်တော်ကားလမ်းကိုသော်၎င်း အသုံးပြုနိုင်ကြလေသည်။ ခရိုင်၏အနောက်ဖက်ပိုင်းတွင် မြစ်မခမြစ်၏ လတာပြင်ကြီးသည် မိုးရာသီအခါ အကျယ် ကိုးမိုင်ခန့် ရေမြုပ်နေတတ်သဖြင့် ထိုဖက်ပိုင်းတွင်မူ ကုန်းလမ်းခရီး လမ်းပန်းအဆက်အသွယ် နည်းလေသည်။

ရန်ကုန်-ပြည် မီးရထားလမ်းသည် ခရိုင်တခုလုံးကို ဖြတ်သန်းသွားသည်။ ၁၈၇၇ ခုနှစ်တွင် ဖွင့်လှစ်ခဲ့သော ထို မီးရထားလမ်းသည် သာယာဝတီခရိုင် အတွင်း၌ ယင်းထက် နှစ်အနည်းငယ် စော၍ ပြီးစီးသော ရန်ကုန်-ပြည် မော်တော်ကားလမ်းမကြီးနှင့် ယှဉ်ပြိုင်လျက် ရှိသည်။ ခရိုင်အတွင်း ၆၁ မိုင်မျှ ဖြတ်သန်းသွားရာ ထိုမျှသော ခရီး အကွာအဝေး အတွင်း ဘူတာရုံ ၁၃ ရုံရှိ၍ ဇီးကုန်း၊ကြို့ပင်ကောက်၊မင်းလှ၊ လက်ပံတန်း၊ သုံးဆယ်မြို့ တည်းဟူသော မြို့နယ် ရုံးစိုက်မြို့များသည် အရောင်းအဝယ် စည်ကားသော မီးရထားလမ်း မြို့များ ဖြစ်ကြလေသည်။

ခရိုင်၏ အနောက်ဖက်ပိုင်းတွင် တခုတည်းသော ကုန်းလမ်းခရီး အဆက်အသွယ်မှာ လက်ပံတန်းမှ သာရဝေါသို့ ခွဲထွက်သော မီးရထားလမ်းခွဲ ဖြစ်သည်။ သာရဝေါမှ ကူးတို့နှင့် ကူးလျှင် တဖက်ကမ်းရှိ ဟင်္သာတသို့ ရောက်၍ဟင်္သာတ-ပုသိမ် မီးရထားလမ်းနှင့် ဆက်နိုင်လေသည်။

ခရိုင်အတွင်း ဖြတ်သန်းသွားသော ရန်ကုန်-ပြည် ကားလမ်းမကြီးမှ ခရိုင်အတွင်းလမ်းခွဲများ ရှိသည်။ ယင်းတို့မှာ သုံးဆယ်မှ စံရွှေးသို့ ငါးမိုင်၊ ကျွန်းကလေးမှ မြားချောင်းသို့ ကိုးမိုင်၊ ကျွန်းကလေးမှ လက်ပံတန်းသို့ နှစ်မိုင်၊ ကျွန်း

ကလေးမှ ပေါက်တောသို့ ၁၂ မိုင်နှင့် မင်းလှသို့ ၁၉ မိုင်၊ ရှမ်းတောမှ ပေါက်တောသို့ ကိုးမိုင်၊ ဂုန်ညင်းတန်းမှ အိုးသည်ကုန်းသို့ နှစ်မိုင်၊ အုတ်ဖိုမှ တိမ်မြုပ်သို့ ခြောက်မိုင်၊ ကြို့ပင်ကောက်မှ မြို့တွင်းသို့ ခုနစ်မိုင်နှင့် ဇီးကုန်းသို့ ၁၄ မိုင်၊ ဇီးကုန်းမှ တာပွန်သို့ ၁၂ မိုင်နှင့် ကန်ကြီးသို့ ခုနစ်မိုင်၊ နတ္တလင်းမှ ကုန်းသာသို့ ခုနစ်မိုင် အသီးအသီး ဖြစ်ကြလေသည်။

သာယာဝတီ ခရိုင် အတွင်း၌ တန်ခိုးကြီးဘုရား စေတီများ၊ရာဇဝင် သမိုင်းနှင့် စပ်လျဉ်းသော စေတီပုထိုးနှင့် ရှေးဟောင်း အဆောက်အအုံများ ကြီးကြီး ကျယ်ကျယ် ထင်ထင်ရှားရှား မရှိချေ။

၁၉၃၀ ပြည့်နှစ် ဒီဇင်ဘာလတွင် တနိုင်ငံလုံးတွင် ထိခိုက်လျက်ရှိသော စီးပွားရေး ကြပ်တည်းမှုကို အကြောင်းပြု၍ သာယာဝတီခရိုင်မှ ဆရာစံ ခေါင်းဆောင်သော တောင်သူလယ်သမားများသည် ဗြိတိသျှ အစိုးရအား တော်လှန် ပုန်ကန်ခဲ့သည်။ ထို တောင်သူလယ်သမား အရေးတော်ပုံသည် ဖျာပုံခရိုင် ဒေးဒရဲမြို့နယ်၊အင်းစိန်ခရိုင် ထန်းတပင်မြို့နယ်တို့သို့လည်း ကူးစက်ခဲ့၍ ဗြိတိသျှအစိုးရသည် နှစ်နှစ်ခန့်နှိမ်နင်းခဲ့ရသည်။ ထို တောင်သူလယ်သမား အရေးတော်ပုံကြောင့် သာယာဝတီခရိုင်သည် နာမည်သတင်း ကြီးခဲ့လေသည်။

**သာယာဝတီဗျိုင်း။** ။ဗျိုင်းတမျိုး ဖြစ်သော သာယာဝတီဗျိုင်းသည် ဇီဝဗေဒ အလိုအရ အာဒီအီဒီး မျိုးရင်းတွင် ပါဝင်၍ အီဂရက်တာ အင်တာမီးဒီးယား ဟု ခေါ်သည်။ အလျား ၂၈ လက်မခန့် ရှိ၍ ဗျိုင်းငန်းထက် အတန်ငယ်မျှ သေးသော်လည်း ရိုးရိုးဗျိုင်း၊သို့မဟုတ် ဥဗျိုင်းထက် အတန်ငယ် ပို၍ ကြီးကာ ထို နှစ်မျိုး၏ ကြားအရွယ် ဖြစ်သည်။ အခြားဗျိုင်းများနည်းတူ ရှည်လျားသောခြေတံ၊ ရှည်လျားသော လည်တံနှင့် ချွန်ထက်သောနှုတ်သီး ရှိသည်။

ဗျိုင်းငန်းနှင့် သာယာဝတီ ဗျိုင်းကို ယှဉ်ကြည့်လျှင် ဗျိုင်းငန်း၏ ခြေထောက်သည် ပို၍ တုတ်ခိုင်ပြီးလျှင် နှုတ်သီးကလည်း ပို၍ ကြီးသည်။ အခြားသော ခြားနားချက်တခုမှာ သာယာဝတီဗျိုင်းတွင် ဗျိုင်းငန်းနှင့်အခြားဥဗျိုင်းတို့တွင် မရှိသော ရင်ပတ်မွေးများ ရှိ၍ ယင်း အမွေးများသည် အလွန်ဖွံ့ဖြိုး နူးညံ့လေသည်။ ထိုရင်ပတ်မွေးတို့သည် ဇန္နဝါရီလ ၂၃ရက်နေ့မှစ၍စက်တင်ဘာလ ၇ရက်နေ့အတွင်း၌သာ ပေါက်ရောက်နေသည်ကို တွေ့ကြရ၍ ထိုရင်ပတ်မွေးများ မပေါက်သည့်အချိန်တွင်မူ ဗျိုင်းငန်းနှင့် သာယာဝတီဗျိုင်းကို အရွယ်အစားမှလွဲလျှင် ရုတ်တရက် ခွဲခြား၍ မရနိုင်ပေ။ အမွေးအတောင် ပေါက်စအရွယ်တွင် နှစ်မျိုးလုံး၌ နှုတ်သီးမည်းသည်။ နှစ်မျိုးလုံး၌ လုပ်နူးညံ့သော အမြီးပိုင်း အမွေးရှည်များ ရှိသည်။ ဇူလိုင်လနှင့် သြဂုတ်လများမှ စ၍ နှစ်မျိုးလုံး၏ နှုတ်သီးသည် အရောင်ဝါလာလေသည်။

မိုးတွင်း စပါးစိုက်ပျိုးချိန်တွင် အခြား ဗျိုင်းများကဲ့သို့ပင် လယ်ကွက်ထဲ၌ လျှောက်၍ ကနန်း၊ လယ်ဗုဇွန်လုံး၊ ပိုးကုံးလုံး၊ ငမြောင်တောင်ကဲ့သို့သော ပေါက်ဖတ်များ၊ ခူများနှင့် အခြားပိုးကောင်မွှားကောင်များကို ရှာဖွေဖမ်းဆီးစားသောက်ကြသည်။ ယင်းသို့ဖြင့် စပါးပင်များကို ဖျက်ဆီးမည့် ရန်သူများကို တနည်းတဖုံအားဖြင့် သုတ်သင်ရှင်းလင်းပေးသည်။ထို့ပြင် ကျွဲ နွားများ၏ ကိုယ်ပေါ်တွင် တွယ်ကပ် နှောင့်ယှက်နေသော ပိုးမွှားများကိုလည်း ကောက်ယူစားသောက်ကြသဖြင့် ယင်းတို့ နားလာသည့်အခါ ကျွဲ နွားတို့ကလည်း ငြိမ်သက်စွာ ခံနေတတ်ကြသည်။ ထို့ကြောင့် သာယာဝတီဗျိုင်း အပါအဝင်ဖြစ်သော ဗျိုင်းမျိုးတို့သည် လူနှင့် ကျွဲနွားတိရစ္ဆာန်တို့ကို အကျိုးပြုသည့် ငှက်များတွင် တမျိုးပါဝင်ပေသည်။ လူတို့သည် သာယာဝတီ ဗျိုင်းတို့၏ လုပ်နူးညံ့သော ရင်ပတ်မွေး၊ အမြီးပိုင်း အမွေးတို့ကို အလိုရှိသဖြင့် ပစ်ခတ် သတ်ဖြတ်လေ့ရှိကြရာ ထိုဗျိုင်းတို့သည် စပါးပင်များအား နှောက်ယှက် ဖျက်ဆီးသော ပိုးမွှားများကို သုတ်သင်ရှင်းလင်းပေးသည့် အချက်ကို တောက်ထား၍ သတ်ဖြတ်ပစ်ခတ်ရန် မပြုသင့်ပေ။

စပါးရိတ်ပြီးချိန်တွင် ထိုဗျိုင်းတို့သည် အခြားဗျိုင်းများနည်းတူ မြစ်ချောင်းများရှိရာသို့ ပြောင်းရွှေ့ သွားကြပြီးလျှင် ငါး၊ ဖားငွန်တို့ကို ဖမ်းယူစားသောက်ကြသည်။ ရေစပ်တွင် ငါးစောင့်ဖမ်းနေသော ဗျိုင်းများတွင် သာယာဝတီဗျိုင်းများလည်း ပါဝင်ပေသည်။ ယင်းတို့သည် အခြားဗျိုင်းများကဲ့သို့ပင် များစွာ အော်မြည်တတ်ခြင်း မရှိချေ။ အိပ်တန်းတက်ချိန်၌သာလျှင် ယင်းတို့၏ အသံကို ကြားရ၍ ထိုအော်သံတို့သည်လည်း သာသာယာယာမရှိလှပေ။

အခြားဗျိုင်းတို့ကဲ့သို့ပင် သာယာဝတီ ဗျိုင်းများသည် အအုပ်အသင်းဖွဲ့၍ နေတတ်ပြီးလျှင် မန်ကျည်းပင်၊ သရက်ပင်၊ ထနောင်းပင်များ၏ ထိပ်ဖျားတွင် အသိုက် ပြုလုပ်နေတတ်ကြသည်။ အသိုက်များကို တုတ်ချောင်းများ၊သစ်ခက်ခြောက်များဖြင့် ဖြစ်ကတတ်ဆန်း ပြုလုပ်ထားကြ၍ သပ်သပ် ရပ်ရပ်မရှိလှချေ။ မိုးဦးကျ အချိန်တွင် သားပေါက်လေ့ရှိ၍ တမြုံလျှင် လေးဥမှ ခြောက်ဥအထိ ရှိတတ်သည်။ သာယာဝတီ ဗျိုင်းတို့သည် အခြား ဗျိုင်းများနှင့်လည်း သစ်ပင် တပင်ထဲတွင် အတူ နေထိုင်ကြသည်ကို တွေ့ရလေသည်။

သာယာဝတီဗျိုင်းတို့ကို အရှေ့နိုင်ငံများ၌အတွေ့ရ များသည်။ သို့သော် မြန်မာနိုင်ငံ အောက်ပိုင်း၌ အတွေ့ရနည်းပြီးလျှင် ရခိုင်ကမ်းရိုးတန်းဒေသနှင့် မင်းဘူး၊ ရွှေဘို စသော မြန်မာနိုင်ငံ အလယ်ပိုင်း၌ ပို၍ အတွေ့ရ များလေသည်။

**သာယာဝတီမင်း** (မြန်မာ ၁၁၄၇–၁၂၀၇)။ ။ကုန်းဘောင်မင်း ဟူ၍ရင်း၊ ရွှေဘိုမင်း ဟူ၍ရင်း ထင်ရှားသော သာယာဝတီမင်းသည် ကုန်းဘောင် ရှစ်ဆက်မြောက် မင်းဖြစ်သည်။

အင်းဝမြို့မှ အမရပူရမြို့သို့ ပြောင်းရွှေ့၍ ဒုတိယအကြိမ် ထပ်မံ တည်တော်မူသဖြင့် အမရပူရ ဒုတိယ မြို့တည် နန်းတည် မင်းတရားကြီး ဟုလည်း ခေါ်တွင်သည်။ အမရပူရ ပဌမ မြို့တည် နန်းတည် ဘိုးတော်ဘုရား၏ သားတော်ကြီး မဟာ ဥပရာဇာ အိမ်ရှေ့မင်းကြီးနှင့် ပဌမ အိမ်ရှေ့မိဖုရားတို့၏ သားတော် လေးပါးအနက် ၁၁၄၇ ခုနှစ် တပေါင်းလပြည့် ကျော် ၁၀ ရက် ညဉ့်တချက်တီးကျော် ၁၁ ရက် ဗုဒ္ဓဟူးနေ့ သို့အဝင် ဖွားမြင်တော်မူသော ဒုတိယ အငယ်ဆုံး သားတော်ဖြစ်သည်။ (ဘိုးတော်ဘုရား—ရှု။) ရတနာပူရစတုတ္ထ မြို့တည် ဘကြီးတော် မင်းတရားကြီး၏ ညီတော်ရင်းလည်း ဖြစ်သည်။ ဘိုးတော် နောင်တော်တို့လက်ထက် သရက်၊ သာယာဝတီမြို့များကို ကံကျွေးခံရပြီးလျှင် အထွတ်အထိပ် ရောက်သောအခါ သာယာဝတီမင်းဟု တွင်သည်။ ဘထွေးတော် ပြည်မင်း၊ တောင်ငူမင်းများနှင့် လွှတ်တက်၍ စီရင်ရသည်။ သက်တော် ၂၃ နှစ်တွင် ဘထွေးတော် ပုဂံဘုရင်ခံ သမီးတော် ကျပင်းမင်းသမီးနှင့် စုံဖက်တော်မူသည်။ သာယာဝတီမင်း၏ ငယ်မည်ကား မောင်ခင်တည်း။

၁၁၉၆ ခုနှစ်တွင် ဘကြီးတော် မင်းတရားကြီး ကိုယ်တော် ကျန်းခန့်တော် မမူသောအခါ နိုင်ငံအုပ်ချုပ်ရေးကို မိဖုရားခေါင်ကြီးနှင့် မောင်တော် စလင်းမြို့စား မင်းသားတို့အား လွှဲအပ်ထားခိုက် စလင်းမြို့စားနှင့် အပေါင်းပါတို့က သာယာဝတီ မင်းသား အပေါ် မှုခင်း ရှာကြံ၍ အိမ်တော်ကို ဝိုင်းသောကြောင့် သာယာဝတီ မင်းသားသည် ၁၁၉၇ ခုနှစ်တွင် ရွှေဘိုသို့ နောက်တော်ပါများနှင့် အတူ ထွက်ခွာ၍ အခိုင်နေလေသည်။ (ဘကြီးတော် — ရှု။) နောင်တော် မင်းတရားကြီးကလည်း တပ်များ စေလွှတ်၍ တိုက်ခိုက်စေသည်။ သို့ရာတွင် သာယာဝတီ မင်းသား တပ်များကသာ အောင်လျက်ရှိ၏။ ညီတော်နောင်တော်ယင်းသို့ စိတ်ဝမ်းမကြည် ရှိကြသည်ကို အင်္ဂလိပ် ကိုယ်စားလှယ် မေဂျာ ဗားနေး(မယ်စယ် ဘော်ရနီ)သည် သာယာဝတီ မင်းသားရှိရာ ရွှေဘိုသို့ လိုက်သွား ဖြန်ဖြေသော်လည်း အရေးမရသဖြင့် ဆရာတော်များ ကြွရောက် ဖြန်ဖြေစေ့စပ်ရသည်။ မကျန်းမမာဖြစ်နေသော နောင်တော် မင်းတရားကြီးသည် စလင်းမင်းသားနှင့် အပေါင်းပါတို့ကို ညီတော် သာယာဝတီ မင်းသားအား ပေးအပ်၍ ၁၁၉၉ ခုနှစ် ကဆုန်လပြည့်ကျော် ၁၂ ရက်နေ့တွင် ထီးနန်းကိုပါလွှဲအပ်လေသည်။ ယင်းသို့ကုန်းဘောင် ရွှေဘိုမြို့မှနေ၍ မင်းအဖြစ်ကိုရသောကြောင့် ကုန်းဘောင်မင်းဟူ၍ရင်း၊ ရွှေဘိုမင်းဟူ၍ရင်းတွင်ခြင်းဖြစ်သည်။

သာယာဝတီမင်းသည် ရွှေထီးရွှေနန်းကိုသိမ်းမြန်းတော်မူပြီးလျှင် ၁၁၉၉ ခုနှစ်မှစ၍ အမရပူရမြို့ကို ပြန်လည် ပြုပြင်၍ ၁၂၀၀ ပြည့်နှစ်တွင် ပြောင်းရွှေ့စံတော်မူသည်။ ၁၂၀၂ ခုနှစ် ဝါဆိုလဆန်း ၁၀ ရက်နေ့တွင် မိဖုရားခေါင်ကြီးနှင့်အတူ ဘိသိက်ခံတော်မူ၍ သီရိပဝရာဒိတျာ လောကာဓိပတိ ဝိဇယ မဟာဓမ္မ ရာဇာဓိရာဇာ တံဆိပ်နာမံ ခံတော်မူသည်။ မိဖုရားခေါင်ကြီးကမူ သီရိပဝရ တိလောက မဟာရတနာ ပဒုမဒေဝီ တံဆိပ်နာမံကို ခံတော်မူသည်။ နောင်တော် မင်းတရားကြီးကိုလည်း နှလုံးတော် မပင်ပန်းစေရပဲ မဟာသကျသီဟဘုရား အနီးရှိ အိမ်ဖြူတော်နှင့်ထား၍ ခမည်းတော်ကဲ့သို့ စောင့်ရှောက်တော်မူသည်။

နောင်တော်၏သားတော် ညောင်ရမ်းမင်းသားကိုလည်း သားတော်အရင်းကဲ့သို့ အခွင့်အရေး ပေးကာ လက်နက်ကရိယာများ အကုန်အစင် ပြန်၍ အပ်နှင်းတော်မူသည်။ သို့ရာတွင် ၁၂၀၀ ပြည့်နှစ် တန်ခူးလတွင် တူတော် ညောင်ရမ်းမင်းသား မသင့်သော အကြံပြုကြောင်း အခိုင်အလုံ စစ်ဆေး သိရှိရသဖြင့် ထုံးစံနှင့်အညီ ရေတွင် ဖျောက်တော်မူသည်။ မရီးတော် မိဖုရားခေါင်ကြီး မယ်နုနှင့် စလင်းမင်းသားတို့သည် ပုန်ကန်မှုတွင် ရောရှက် ပါဝင်နေကြောင်း တွေ့ရှိသဖြင့် ထိုနှစ် ကဆုန်လဆန်း ၂ ရက်နေ့တွင် ထုံးစံနှင့်အညီ စီရင်တော်မူသည်။

သက္ကရာဇ် ၁၂၀၃ ခုနှစ် တော်သလင်း လပြည့်ကျော် ၆ ရက်နေ့တွင် မိဖုရား သားသမီး မှူးမတ် ခြွေရံအပေါင်းခြံရံ၍ ရန်ကုန်သို့ စုန်တော်မူပြီးလျှင်၊ ရွှေတိဂုံ(ဒဂုဏ် ဆံတော်ရှင်)ဘုရား၊ သံလျင် ကျိုက်ခေါက်ဘုရား၊ ပဲခူး ရွှေမောဓော ဘုရား၊ ကုသိန္နာရုံ ဘုရားများကို အဖူးအမြော် ထွက်တော်မူသည်။ ရွှေတိဂုံ စေတီတော်အားလည်း ရွှေတော် သပြာကျပ်ချိန် ၃,၂၀၀ ကို ခတ်သည့် ရွှေမျက်ပါဖြင့် ထီးတော် ငှက်ပျောဖူးကသည် ဖိနပ်တော်ထိ ရွှေလုံးပြည့် ရွှေသင်္ကန်း ကပ်လှူပူဇော်သည်။ ကြေးချိန်ပိဿာ ၂,၅၉၄ ကျပ်ရှိသော ကြေးခေါင်းလောင်းကြီးကိုလည်း သွန်းလုပ် လှူဒါန်းသည်။ အနောက်နန်း မိဖုရား မမြကလေးက ရွှေတိဂုံစေတီတော်၏ အနောက်စောင်းတန်း ဆောက်လုပ် လှူဒါန်းခဲ့သည်။ (ရွှေတိဂုံဘုရား — ရှု။) ထိုနှစ် တပို့တွဲ လတွင် နေပြည်တော် အမရပူရသို့ ဆန်တက်ရာ နှောင်းတန်ခူးလဆန်း ၄ ရက်နေ့တွင် ရောက်သည်။

သာယာဝတီ မင်းတရားကြီးကား နောင်တော် မင်းတရားကြီး လက်ထက် ချုပ်ဆိုခဲ့သော ရန္တပို စာချုပ်ကို အသိအမှတ်မပြု။ ဗြိတိသျှ ဧကရာဇ် မင်းနှင့်သာ တိုက်ရိုက်ဆက်ဆံလိုသဖြင့် သက္ကရာဇ် ၁၁၉၉ ခုနှစ်တွင် အင်္ဂလိပ် ကိုယ်စားလှယ် မေဂျာဗားနေး ပြန်သွားရသည်။ နောက်တနှစ်တွင် ဗြိတိသျှ အစိုးရက ကိုယ်စားလှယ်တော်အဖြစ်

ကာနယ် ဗင်ဆန်ကို ထားလာပြန်သည်။ သို့ရာတွင် ဘုရင် အသိအမှတ်မပြု၍ ၁၂၀၂ ခုနှစ်တွင် ကိုယ်စားလှယ်အဖွဲ့ အားလုံး ရုပ်သိမ်းရသည်အထိ ဆက်ဆံရေး အဆင်မပြေ ဖြစ်ခဲ့ရသည်။ ဗြိတိသျှ သမိုင်း ဆရာများက သာယာဝတီမင်းအား ရန္တပိုစာချုပ် ဆန့်ကျင်ရေးသမားတဦး အနေနှင့် ရေးသားကြလေသည်။ ထို့ကြောင့် ၁၂၀၃ ခုနှစ်တွင် သာယာဝတီ မင်းတရားကြီး ရန်ကုန်သို့ စုန်လာသောအခါ အင်္ဂလိပ် အစိုးရတို့ စိုးရိမ်မကင်းဖြစ်ကြ၍ ယင်းတို့ သိမ်းပိုက်ထားကြသော တနင်္သာရီနှင့် ရခိုင်နယ်များသို့ စစ်မက်အင်အား ဖြည့်တင်း ပြင်ဆင်ခြင်း ပြုကြလေသည်။ ယင်းသို့ အင်္ဂလိပ်-မြန်မာ ဆက်ဆံရေး အဆင်မပြေမှုကြောင့် နယ်ချဲ့လိုသော အင်္ဂလိပ်တို့အဖို့ အကြောင်းပြကောင်းဖို့ ဖြစ်လာလေသည်။ ဤအချက်ကို အခွင့်ကောင်းယူ၍ သားတော် ပုဂံမင်းလက်ထက် အင်္ဂလိပ်-မြန်မာ ဒုတိယ စစ်ပွဲဖြစ်ကာ အောက်မြန်မာနိုင်ငံ အလုံး အင်္ဂလိပ်တို့ လက်ထဲသို့ ကျရောက်ခဲ့ရလေသည်။

၁၂၀၇ ခုနှစ်တွင် သာယာဝတီ မင်းတရားကြီး ကောင်းစွာ ကျန်းခန့်တော်မမူခိုက် သားတော် ပြည်စားမင်း မသင့်သော အကြံအစည်ကို ကြံသဖြင့် ထုံးစံနှင့်အညီစီရင်တော်မူသည်။ အနောက်နန်း မိဖုရား မမြကလေးအားလည်း ပြည်စားနှင့် နှလုံးစိတ်ဝမ်းတူ ကြံစည်ကြောင်း စစ်မေးချက်ရသည်နှင့် ရေဋ္ဌ ဖျောက်၍ ကြံရာပါ ဆွေမျိုး ကျေးကျွန်တို့ကို ကွပ်မျက်တော်မူသည်။ (မြကလေး၊ အနောက်နန်း၊ မ — ရှု။) ယောအတွင်းဝန် ဦးဘိုးလှိုင်၏အဖယင်းတော ဝန်ကြီးအားလည်း ကြံရာပါသည်ဆိုကာ ကွပ်မျက်လိုက်သည်။ (ဘိုးလှိုင်၊ယောအတွင်းဝန်၊ ဦး — လည်းရှု။) ထိုနှစ် တန်ဆောင်မုန်း လဆန်း ၅ ရက်နေ့တွင် သာယာဝတီ မင်းသည် သားတော်ကြီးပုဂံမင်းသားကိုအိမ်ရှေ့အပ်နှင်း၍သားတော်လတ် မင်းတုန်းမင်းသားအား ဝန်ကြီး အတွင်းဝန်များနှင့် တိုင်ပင်၍ တိုင်းရေး ပြည်မှုကို ကြည့်ရှုစီရင်စေသည်။

၁၂၀၈ ခုနှစ် သီတင်းကျွတ် လပြည့်ကျော် ၁၀ ရက်နေ့တွင် နောင်တော် ဖလ်နန်းရှင် မင်းတရားကြီးသည် စံအိမ်တော်၌ နတ်ရွာစံတော်မူရာ ခမ်းနား ကြီးကျယ်စွာ သင်္ဂြိုဟ်ခြင်းပြုသည်။ ထိုနှစ် တန်ဆောင်မုန်းလပြည့်ကျော် ၁၄ ရက်နေ့တွင် သက်တော် ၆၀၊ စည်းစိမ်တော် ကိုးနှစ်နှင့် ခြောက်လတွင် သာယာဝတီမင်း နတ်ရွာစံတော်မူသည်။ နတ်ရွာမစံမီ စိတ်နှလုံး နောက်တော်မူသည်။ ယင်းတောဝန်ကြီး သတ်စဉ်ကပင် နောက်နေသည်ဟု ဆိုသည်။

သာယာဝတီ မင်းတရားကြီးသည် ရတနာ သုံးပါးကို ယုံကြည်လေးမြတ်တော်မူသည်။ပညာရှိတို့ စကားကိုလည်း နာယူလေ့ရှိသည်။ တိုင်းရေး၊ ပြည်ရေး၊ သာသနာတော်ရေးများကို သတိနှင့် စောင့်ရှောက်တော်မူသည်။ အပြစ်ရှိသူကိုလည်း အပြစ်အလျောက် မထောက်မညှာ ဆုံးမတော်မူသည်။ ဆင်ကြန်၊ မြင်းကြန်၊ ပန်းချီပန်းပုအတတ်ကို သူမတူအောင် တတ်တော်မူသည်ဟု ပညာရှိတို့ ချီးမွမ်းခြင်းခံရသည်။ ဆင်စီး မြင်းစီး ကျွမ်းကျင်သည်။ နံနက်ခင်း ညနေခင်း များတွင် ဆင် မြင်းနှင့် လှည့်လည်လေ့ ရှိသည်။ ဆင်ကျုံးတွင် ဆင်သွင်းလျှင် ကိုယ်တိုင် ကြပ်မ သွင်းဆောင်လေ့ ရှိသည်။ ကိုယ်ရံတော် သက်တော်စောင့် မပါပဲ တပါးတည်း ဆင်တစီး မြင်းတစီးနှင့် လှည့်လည်လေ့ ရှိသည်။ တောင်ဖက် ရွှေဆပ်သွား ဘုရားကို ပြင်ဆင်စေသည့်အခါ မြင်းနှင့် နေ့ခြင်းပြန် သွားရောက် ကြည့်ရှုတော်မူသည်။ တင်ကူး၍ အဆင့်အဆို မရှိပဲ ရုတ်တရက် ထွက်လာတော်မူလေ့ရှိသည်ကို သတိထား၍ အလုပ်များကို ကောင်းစွာ လုပ်ဆောင်ကြရသည်။ အပေါင်းပါတို့နှင့် သွားသည့်အခါ သာယာဝတီ မင်းတရားကြီး၏ ဆင်ကို မှီအောင် လိုက်နိုင်သူများမှာ ဆင်မင်းဝန်၊ ဆင်ဝန် စသော ဆင်အရာရှိကြီးများ တစီး နှစ်စီးသာရှိသည်။

သာယာဝတီ မင်းသည် အမှုများကို ကိုယ်တိုင် စစ်ဆေးလေ့ ရှိသည်။ လူများကိုလည်း ကိုယ်တိုင် ကွပ်မျက်လေ့ ရှိသည်။

သာယာဝတီမင်း၏ထင်ရှားသော မိဖုရားငါးပါးမှာ သီရိပဝရ တိလောက မဟာရတနာ ပဒုမဒေဝီ ဘွဲ့ခံ မိဖုရားခေါင်ကြီးတပါး၊ သီရိပဘာ နန္ဒာဘိ ရတနာဒေဝီ ဘွဲ့ခံ မြောက်နန်း မိဖုရားတပါး၊ သီရိ မဟာ စန္ဒာဘိ ရတနာဒေဝီ ဘွဲ့ခံ အလယ်နန်း မိဖုရားတပါး၊ သီရိ မဟာ သုရတနာစန္ဒာဒေဝီ ဘွဲ့ခံ အနောက်နန်း မိဖုရားတပါးနှင့် သီရိသုစန္ဒာမဟာဒေဝီ ဘွဲ့ခံ တောင်ဆောင်တော် မိဖုရားတို့ဖြစ်သည်။

မင်းတရားကြီးတွင် သားတော် သမီးတော် သုံးကျိပ်တပါးရှိသည်အနက် မိဖုရား ခေါင်ကြီးမှ မြင်သော သားတော် ပုဂံမင်းသား၊ သမီးတော် ရတနာဒေဝီ၊ အလယ်နန်းမိဖုရားမှမြင်သည့်သားတော် ပြည်မင်းသား၊ပုခန်းမင်းသား၊ တောင်ဆောင်တော်မိဖုရားမှမြင်သောသားတော် မင်းတုန်းမင်းသားနှင့် ကနောင်မင်းသား၊ အနောက်နန်းမိဖုရားမှမြင်သော သမီးတော် လှိုင်မြို့စားမင်းသမီးတို့မှာထင်ရှားသည်။

သာယာဝတီ မင်းတရားကြီး လက်ထက် ထင်ရှားသော စာဆိုတော်ကြီးများမှာ မြဝတီမင်းကြီး ဦးစ၊ ဦးပေါ်ဦး၊ စိန္တကျော်ထင် ဘွဲ့ခံ ကန်ပြင်ရွာစား စာဆိုတော် ဦးမင်း၊ ဝက်မစွတ် မြို့စား နဝဒေး၊ ဘိုးသူတော် ဦးမင်း၊ အနောက်နန်းမိဖုရား မမြကလေး၊ ဆီမီးခုံရွာစား ဦးရွှန်း၊ မှာတမ်းရေးဆရာ မောင်စံသူ၊ ပြဇာတ်ရေးဆရာ ဦးကြင်ဥ၊ နာခံတော် ဦးရွှေခြည်တို့ ဖြစ်ကြသည်။ (စ၊ မြဝတီ ဝန်ကြီး။ နဝဒေး။ မင်း၊ ဦး။ မင်း၊ ဦး၊ ဖိုးသူတော်။ ရွှန်း၊ ဦး။ ကြင်ဥ၊ ဦး — လည်းရှု။)

**သာယာဝတီမြို့။** ။သာယာဝတီမြို့သည် သာယာဝတီခရိုင်၏ ခရိုင်ဝန်ရုံးစိုက်မြို့ဖြစ်သည်။ ရန်ကုန်မြို့၏ အနောက်မြောက်ယွန်းယွန်းတွင် တည်ရှိ၍ မီးရထားလမ်းအားဖြင့် ရန်ကုန်မှ ၆၀ မိုင် ဝေးကွာပြီးလျှင် မော်တော်ကားလမ်းအားဖြင့် ၇၈ မိုင် ဝေးကွာသည်။ ရန်ကုန်-ပြည် မီးရထားလမ်းနှင့် မော်တော်ကားလမ်းပေါ်တွင် တည်ရှိသောမြို့ဖြစ်၍ ကူးသန်းသွားလာရေး လွယ်ကူပေသည်။ ရန်ကုန်-ပြည် မော်တော်ကားလမ်းသည် သာယာဝတီ မြို့တွင်း ဖြတ်သန်းသွားလေသည်။

သွားရေး လာရေး အဆင်ပြေ၍ လွယ်ကူသော်လည်း သာယာဝတီမြို့သည် အခြား ခရိုင်မြို့ကြီးများကဲ့သို့ မစည်ကားချေ။ သာယာဝတီခရိုင်အတွင်းရှိ လက်ပံတန်း၊ သုံးဆယ်၊ ကြို့ပင်ကောက် စသော မြို့များလောက် လူဦးရေများပြားစည်ကားခြင်း၊ အရောင်းအဝယ်ဖွံ့ဖြိုးခြင်းမရှိပေ။ သာယာဝတီမြို့ကို ခရိုင်ရုံးစိုက်မြို့အဖြစ် ရွေးချယ်ခဲ့ခြင်းမှာ အုပ်ချုပ်ရေး အတွက် အချက်အချာ ကျသည် ဟူသော အကြောင်းပြချက်ဖြင့် ၁၈၇၈ ခုနှစ်တွင် ထိုစဉ်က သာယာဝတီ ခရိုင်ဝန်ဖြစ်သော ကပ္ပတိန်ဖော့ က ရွေးချယ်ခဲ့ခြင်းဖြစ်လေသည်။ ဒုတိယ အင်္ဂလိပ်-မြန်မာစစ်ပွဲအပြီး အင်္ဂလိပ်အစိုးရတို့သည် ပဲခူးတိုင်းကိုစိုးမိုးစအချိန်တွင် သာယာဝတီခရိုင်ကို ဟင်္သာတခရိုင်နှင့် ပူးတွဲထားခဲ့သည်။ နယ်အခြေအနေ ငြိမ်သက်လာသောအခါ ၁၈၇၃ ခုနှစ်တွင် သာယာဝတီအား ဟင်္သာတမှ ခွဲထုတ်၍ သီးသန့်ခရိုင်အဖြစ် သတ်မှတ်ခဲ့သည်။သီးသန့်ခရိုင် ဖြစ်လာသည့်နောက်တွင် ရုံးစိုက်မြို့အဖြစ်ထားရန်အာဏာပိုင်တို့သည် မြို့ရွာဒေသအမျိုးမျိုးကို ရွေးချယ်စဉ်းစားခဲ့ကြသည်။ သုံးဆယ်၊ လက်ပံတန်း၊ မင်းလှတို့ကို အုပ်ချုပ်ရေး အတွက် အချက်အချာ မကျဟူ၍၎င်း၊ ဥရောပတိုက်သား အစိုးရအရာရှိကြီးများ နေနိုင်သောဒေသများ မဟုတ်သဖြင့်၎င်း၊ ရေအခက်အခဲကြောင့်၎င်း ထိုစဉ်က အာဏာပိုင်များက မရွေးချယ်ခဲ့ကြပေ။

ကြို့ပင်ကောက်ဘူတာရုံမှ လေးမိုင်ခန့်ဝေးသောခုနစ်ရွာခေါ်သည့်အရပ်ကိုမူ အာဏာပိုင် အများစုက သဘောကျ၍ ထိုအရပ်ကို ခရိုင်ရုံးစိုက်မြို့တည်ဆောက်ရန် ၁၈၇၈ ခုနှစ်တွင် ရွေးချယ်လိုက်ကြပြီးလျှင် အစိုးရရုံးများဆောက်လုပ်ရန်ပင် စတင်လုပ်ကိုင်ခဲ့ကြသည်။ သို့သော် ကပ္ပတိန်ဖော့ က ထိုအရပ်ဒေသကိုလည်း သဘောမကျပြန်ချေ။ နောက်ဆုံးတွင် ကပ္ပတိန်ဖော့၏ သဘောကျဖြစ်သော ယခု သာယာဝတီမြို့ တည်ရှိရာအရပ်ကို ရွေးချယ်လိုက်ကြသည်။ ထိုအရပ်ကို ရွေးချယ်ရသည့် အကြောင်းမှာ အခြားအရပ်များနှင့်နှိုင်းစာလျှင် ထိုအရပ်တွင် ရေပြဿနာအခက်အခဲ မရှိဟူသော အချက်တရပ်လည်း ပါဝင်ပေသည်။

သို့ဖြင့် ထိုအရပ်တွင် အစိုးရရုံး အဆောက်အအုံများကို ဆောက်လုပ်စေ၍ မြို့တည်ခဲ့လေသည်။ သာယာဝတီမြို့ ဟုခေါ်တွင်ခဲ့ခြင်းမှာ ကြို့ပင်ကောက်မြို့မှ အရှေ့ဖက် ခုနစ်မိုင်ကွာတွင်ရှိသော မြို့တွင်းသည် သာယာဝတီမင်းသားနေထိုင်ခဲ့ဘူးသဖြင့် သာယာဝတီဟုလည်း ခေါ်တွင်ခဲ့ရာ၊ ထိုမင်းသား စံမြန်းခဲ့သောမြို့၏ အမည်ကိုယူ၍ မှည့်ခေါ်သည် ဟုလည်းဆိုကြသည်။ မြို့တည်ထားသော အရပ် ဒေသသည် မြေနိမ့်မြေပြန့်ဖြစ်၍ သစ်ပင်တောအုပ်များပြားသော အရပ်ဖြစ်ခဲ့သည်။ မြို့၏အနေအထား ကွတ်ကွတ်ရွတ်ရွတ်ရှိ၍ လမ်းများလည်း ကောင်းသည်။ သို့သော် သာယာဝတီမြို့၌ မျူနီစီပယ်အဖွဲ့မရှိပဲ နှစ်မိုင်ခန့်ဝေးသော သုံးဆယ် မျူနီစီပယ်အဖွဲ့၏ နယ်နိမိတ်ထဲတွင် ပါဝင်သည်။ အချို့အစိုးရအမှုထမ်းများသည် သုံးဆယ်မြို့တွင် နေထိုင်၍ သာယာဝတီမြို့ရှိ ရုံးများသို့ ရုံးတက်ကြလေသည်။

သာယာဝတီမြို့ပေါ်တွင် ခရိုင်ဝန်ရုံး၊ သာယာဝတီ သစ်တောတိုင်းနှင့် ဇီးကုန်းသစ်တောတိုင်းတို့၏ ခရိုင်သစ်တောဝန်များရုံး၊ လမ်းအရေးပိုင်ရုံး၊ ထောင်စသည်ဖြင့် အစိုးရရုံးအဆောက်အအုံများအပြင် ဆေးရုံ၊ ဈေးစသည့် ပြည်သူ့အဆောက်အအုံများလည်း အခြားခရိုင်ရုံးစိုက်မြို့များနည်းတူရှိသည်။ အထက်တန်း ကျောင်းတကျောင်းနှင့် အလယ်တန်း ကျောင်း၊ မူလတန်း ကျောင်းများလည်း ရှိသည်။ မြို့ပေါ်၌ ရေကန်ကြီးများအပြင် ၁၉၀၅ ခုနှစ်ကတူးခဲ့သော အဝီစိတွင်းကြီးလည်းရှိ၍ မြို့ပေါ်သို့ ရေပြွန်များဖြင့် ရေပေးသော စနစ်ရှိသည်။

သာယာဝတီ မြို့၏ လူဦးရေမှာ ၁၉၇၁ ခုနှစ် ခန့်မှန်းချက်အရ ၁၃,၀၀၁ ဖြစ်၏။

သာယာဝတီမြို့ ပေါ်၌ ထင်ရှားသော ဘုရားများမှာ သတ္တဋ္ဌာန ဘုရားနှင့် အောင်ချမ်းသာ ရုပ်ပွားတော်ကြီးတို့ဖြစ်သည်။ ကန်ကြီးရပ်ရှိ သတ္တဋ္ဌာနဘုရားကို ၁၂၈၀ ပြည့်နှစ်က စတင်တည်ထား ကိုးကွယ်ခဲ့ကြ၍ ဒုတိယကမ္ဘာစစ်ကာလအတွင်းက စစ်ဘေးစစ်ဒဏ်ကြောင့် ပျက်စီးယိုယွင်းခဲ့ရာ ၁၃၂၅ ခုနှစ်တွင် အများကောင်းမှုဖြင့် ပြန်လည်ပြင်ဆင် မွမ်းမံခဲ့ကြပြီးလျှင် ဓမ္မစကြာဘုရားကိုပါ ထပ်မံဖြည့်စွက် တည်ထားကြလေသည်။

ရေဝေရပ်ရှိ အောင်ချမ်းသာရုပ်ပွားတော်ကြီးကို ၁၂၈၈ ခုနှစ် နတ်တော်လဆန်း ၃ ရက်နေ့မှ စတင် တည်ထားကိုးကွယ်ခဲ့ကြ၍ ဂန္ဓကုဋိတိုက်၊ အရုဏ်ခံတန်ဆောင်းစသည်တို့ဖြင့် တင့်တယ် ကြည်ညိုဖွယ်ရာကောင်းသော ဘုရားကြီးတဆူဖြစ်ပေသည်။ ရေဝေအရပ်တွင်ရှိသဖြင့် ထိုဘုရားကြီးကို ရေဝေဘုရားဟုလည်း ခေါ်ဝေါ်ကြလေသည်။

**သာရိပုတ္တရာထေရ်။** ။ရှင်သာရိပုတ္တရာသည် ဂေါတမဘုရားသခင်၏ လက်ျာတော်ရံ ပဌမ အဂ္ဂသာဝကကြီး ဖြစ်

တော်မူသည်။ ပညာကြီးသော အရာ၌ ဧတဒဂ် ရတော်မူသည်။မြတ်စွာဘုရား ရှင်တော်မြတ်မှတပါး ပညာကြီးသည်အဖြစ်၌ သာလွန်သော သာဝကဟူ၍ မရှိသော ထူးကဲသည့်ဂုဏ်နှင့် ပြည့်စုံသည့် ရဟန္တာထေရ်အရှင်ကား ရှင်သာရိပုတ္တရာပင် ဖြစ်သည်။

ဂေါတမ ဘုရားသခင် မပွင့်မီ ကမ္ဘာတသိန်း အလွန်ရှိသော တသင်္ချေထက် အနောမဒဿီ ဘုရားရှင်၏ အထံတော်၌ ပဌမအဂ္ဂသာဝက အဖြစ်ကို နိယတဗျာဒိတ် ခံယူခဲ့ရသည်။

ရာဇဂြိုဟ်ပြည် နာလန္ဒာဟုလည်း တွင်သော ဥပတိဿ ရွာ၊ ဗြာဟ္မဏ မဟာသာလမျိုးဖြစ်သော ဥပတိဿ ရွာသူကြီး ဝင်္ကပုဏ္ဏားနှင့် ရူပသာရီ ပုဏ္ဏေးမတို့၏ သားသမီးခုနစ်ယောက်အနက် ရှင်သာရိပုတ္တရာလောင်းသည် အကြီးဆုံးဖြစ်၍ ဥပတိဿဟု အမည်တွင်သည်။ ငယ်စဉ်က သူငယ်ချင်းဖြစ်သော ကောလိတ ပုဏ္ဏားပျိုနှင့် အတူ တောင်ထွတ်သဘင်ပွဲကြည့်ကြယင်း သတိသံဝေဂရ၍ တရားအားထုတ်ရန် ရာဇဂြိုဟ်ပြည် သိဉ္စည်းပရိဗိုဇ်ထံသို့သွားကြသည်။

ထိုပရိဗိုဇ်ထံ၌ ရဟန်းပြု၍ တရားရှာကြသော်လည်း တရားစစ်တရားမှန်ကို မရနိုင်သဖြင့် သူငယ်ချင်းနှစ်ဦးသည် တဦးတရားရလျှင် တဦးကို ပြန်ကြားပြောဆိုစတမ်း ဟု ကတိကဝတ်ပြုလျက် တရားရှာရန် တကွဲတပြားစီ ခွဲထွက်သွားကြသည်။

ထိုအခါ မြတ်စွာဘုရားသည် ရာဇဂြိုဟ်ပြည်သို့ရောက်၍ ဝေဠုဝန် ကျောင်းတော်၌ စံပယ်တော်မူခိုက် ဖြစ်သည်။ တနေ့သ၌(မဟာသက္ကရာဇ် ၁၀၃ ခု တပို့တွဲလဆန်း ၁ ရက်နေ့)အဿဇိထေရ်သည် ဆွမ်းခံဝင်လာရာ ဥပတိဿပရိဗိုဇ်သည် အဿဇိထေရ်ကို မြင်သောအခါ အလွန်အံ့ဩလျက် ထိုအရှင်၏ တရားကိုငင်း၊ အကျင့်ကိုငင်း၊ ရည်ရွယ်ချက်ကိုငင်း၊ ဆရာကိုငင်း စုံစမ်းမေးမြန်းသည်။

ထိုအခါ အဿဇိထေရ်က မြတ်စွာဘုရားအကြောင်းကိုငင်း၊ တရားတော်အတိုင်း ကျင့်ကြံပုံကိုငင်း ပြောပြသဖြင့် သိရှိရပြီးသော် ဥပတိဿသည် တရားဟောရန် တောင်းပန်ပြန်သည်။ အဿဇိထေရ်က မိမိသည် ရဟန်း ပြုသည်မှာ မကြာသေး၍ အနည်းငယ်သာ ဟောကြားနိုင်မည် ဟု ပြောဆိုကာ'ယေ ဓမ္မာ ဟေတုပ္ပဘဝါ' အစရှိသော ဂါထာကို ဟောကြားရာ ဂါထာ၏ ရှေးဦးနှစ်ပုဒ်ကို ကြားရသောအခါ သောတာပတ္တိမဂ်၌ တည်သည်။ နောက် နှစ်ပါဒကို ဖလဋ္ဌာန်ဖြစ်မှ နာရသည်။

ဥပတိဿသည် သစ္စာလေးပါးကို သိရပြီးသော် အရှင်ဘုရား ကြွတော်မူနှင့်လော့၊ တပည့်တော်မှာ ကတိကဝတ်ရှိသည့်အတိုင်း ကောလိတပရိဗိုဇ်ကို တရားဟောရန် သွားရပါဦးမည်။ ပြီးမှ ထိုအဖော်ကိုခေါ်၍ မြတ်စွာဘုရားထံသို့ လာပါအံ့ဟု လျှောက်ထားကာ မိမိနေရာပရိဗိုဇ်ကျောင်းသို့ ပြန်ခဲ့သည်။

မိမိနေရာသို့ ပြန်ရောက်သောအခါ ကောလိတပရိဗိုဇ်ကို တွေ့၍'ယေဓမ္မာ ဟေတုပ္ပဘဝါ'အစရှိသော ဂါထာကိုပင် ပြန်၍ဟောကြားရာ ကောလိတပရိဗိုဇ်လည်းသောတာပတ္တိဖိုလ်သို့ရောက်သည်။

ထို့နောက် ဥပတိဿသည် ကောလိတနှင့်အတူ မြတ်စွာဘုရားထံသို့သွားသည်။ဘုရားသခင်ထံ၌ ဧဟိဘိက္ခု ရဟန်းဖြစ်ပြီးနောက် တဆဲ့ငါးရက်မြောက် ဖြစ်သော မဟာသက္ကရာဇ် ၁၀၃ ခုနှစ် တပို့တွဲလပြည့်နေ့တွင် သူ၏တူ ဒီဃနခပရိဗိုဇ်အား မြတ်စွာဘုရား ဟောကြားတော်မူသော ဝေဒနာပရိဂ္ဂဟ လက္ခဏသုတ်ဒေသနာတော်ကို ဘေးနားမှကြားနာရ၍ ရဟန္တာအဖြစ်သို့ရောက်သည်။ ထိုနေ့၌ပင်ဝေဠုဝန်ကျောင်းတော်၌ မြတ်စွာဘုရား၏ သာသနာ တော်တွင်မည်သူတဦးတယောက်မျှ မဖိတ်ကြားရပဲ မိမိ၏ ဓမ္မတာသဘော အလျောက် အဘိညာဏ် ခြောက်ပါးရ ဧဟိဘိက္ခုရဟန္တာ ၁၂၅၀ ကြွရောက်ဆုံမိကြသော ပဌမ သာဝကသန္နိပါတ မဟာသံဃာ့အစည်းအဝေးကြီး၌ မြတ်စွာဘုရားက ဥပတိဿအား သူ၏အမိ သာရီပုဏ္ဏေးမ၏ အမည်ကိုအစွဲပြု၍ အရှင် သာရိပုတ္တရာဟု အမည်သမုတ်လျက် ဓမ္မသေနာပတိ၊ တရားစစ်သူကြီးဘွဲ့ဖြင့် လကျာ်ရံ ပဌမ အဂ္ဂသာဝကအဖြစ် ချီးမြှောက်ခြင်းပြုသည်။ တဆက်တည်းပင် ဘုရား သခင်သည် သံသရာမှ လွတ်မြောက်ကြောင်း ဖြစ်သော ဩဝါဒပါတိမောက်ဒေသနာတော်ကိုလည်း ပြတော်မူသည်။

ရှင် သာရိပုတ္တရာသည် မြတ်စွာဘုရားထံတွင် ခစားကာ အလုပ်အကျွေးပြုသည်။ ထို့နောက် သူမတူအောင် ပညာဉာဏ် ထူးချွန်သဖြင့် ပညာအရာတွင် ဧတဒဂ်ဘွဲ့ထူးဖြင့် ချီးမြှောက်ခြင်း ခံရသည်။

ရှင် သာရိပုတ္တရာကား ရှေးဦးဆရာ ဖြစ်တော်မူသော ရှင်အဿဇိရှိရာအရပ်ကို အမြဲဦးခေါင်းပြု၍ အိပ်လေ့ရှိခြင်း စသော ဆရာကိုရိုသေလေးစားတတ်သောဂုဏ်၊ မယ်တော်က မည်မျှဆဲရေးသော်လည်း အမျက်မထွက်ခြင်း စသော သည်းခံတတ်သောဂုဏ်၊ မိမိအား ဆုံးမလှာသည် ရှိသော် ကြီးငယ်မရွေး လွန်စွာ ကျေးဇူး တင်တတ်သောဂုဏ်၊ ပဌမ အဂ္ဂသာဝကကြီး ဟူ၍ အခွင့်အရေး ပို၍ မယူတတ်သော ဂုဏ်၊ စိတ်နှလုံးပြတ်သားသောဂုဏ်၊ သူ့အလိုကို ဖြည့်တတ်သောဂုဏ်၊ သူတပါးအား သနားတတ် ချီးမွမ်းတတ်သော ဂုဏ် စသည့် ဂုဏ်ထူးတို့ဖြင့် ပြည့်စုံတော်မူသည်။

နိကာယ်ငါးရပ် ပိဋကတ်တို့၌ ရှင်သာရိပုတ္တရာ၏ ဒေသနာများကို အများအပြား တွေ့နိုင်လေသည်။ ရှင်သာရိပုတ္တရာ၏ သီးသန့်ဒေသနာတော်တခုကား ခုဒ္ဒကနိကာယ်

သုတ္တန်ပိဋကတ် အပါအဝင် ပဋိသမ္ဘိဒါ မဂ်  ပါဠိတော်ပင်ဖြစ်၏။ ပိဋကတ်တို့၌ပါသော အရေးကြီးလှသည့် တရားတို့ကို အကျယ်တဝင့်ချဲ့ထွင်၍ ဟောကြား ထားသော ပါဠိတော်ဖြစ်သည်။ ထိုပြင် သာသနာတော် အစွန့်ရှည်စေရန် သာသနာတော်၏ အသက်ဖြစ်သော ဝိနည်း ပိဋကတ်ကို ဟောကြားပညတ်တော်မူပါရန် ဘုရားသခင်အားလျှောက်ထား တောင်းပန်သူကား အရှင်သာရိပုတ္တရာပင်ဖြစ်သည်။ ခုဒ္ဒကနိကာယ် အပါအဝင် ဗုဒ္ဓဝင် ဒေသနာကို ဟောကြားတော်မူရန်လည်း ရှင်သာရိပုတ္တရာပင် လျှောက်ထားခဲ့လေသည်။ (ဗုဒ္ဓဝင် — ရှု။) အထူးသဖြင့် ထင်ရှားသော ရှင်သာရိပုတ္တရာ၏ စွမ်းဆောင်တော်မူချက်ကား အဘိဓမ္မာပိဋကတ်ကို ဟောတော်မူခြင်းဖြစ်သည်။ ရှင်သာရိပုတ္တရာသည် မြတ်စွာဘုရား ဟောကြားသည့် အလွန်ကျယ်ဝန်းသော အဘိဓမ္မာ တရားတော်ကို မြတ်စွာဘုရားထံတော်မှ ရသော နည်းအမြွက်ဖြင့် မကျဉ်းမကျယ် ရဟန်းတို့အား ဟောကြား ပို့ချတော်မူသည်။ ရှင်သာရိပုတ္တရာ၏ ကျေးဇူးကြောင့် ကျယ်ဝန်းနက်နဲ ခက်ခဲသော ဘုရားဟော အဘိဓမ္မာ ဒေသနာတော်ကို လူသားတို့ လွယ်ကူစွာ သင်ကြားနာယူနိုင်ကြခြင်းဖြစ်သည်။

သာသနာတော်၏အကျိုး၊ သတ္တဝါတို့၏အကျိုးကို ၄၄ နှစ်တိုင်တိုင် သည်ပိုးရွက်ဆောင်ပြီးနောက် ရှင်သာရိပုတ္တရာသည်မဂဓရာဇ်တိုင်း၊ နာလကရွာ မယ်တော်၏အိမ်၌ သာသနာနှစ် ၁၄၇ ခု တန်ဆောင်မုန်း လပြည့်နေ့ညဥ့် မိုးသောက်ယံ၌ ပရိနိဗ္ဗာန်ပြုတော်မူရာ ဓာတ်တော်များကို မြတ်စွာဘုရား ကိုယ်တော်တိုင် သာဝတ္ထိပြည်၌ ဌာပနာ၍ စေတီတည်စေသည်။နောင်သောအခါ သီရိဓမ္မာသောက မင်းကြီးသည် ဓာတ်တော်များကို မူလနေရာမှ တူးဖော်ဆောင်ယူ၍ အဝန္တိတိုင်း၊ ဥဇ္ဇေနီပြည်အနီး ဝေဒိသကတောင်ရံ၌ စေတီတော်ကြီး သုံးဆူ တည်၍ တဆူတွင် ရှင်သာရိပုတ္တရာ၏ ဓာတ်တော်ကို ဌာပနာသည်။

ထိုဓာတ်တော်များကို ၁၉ ရာစုနှစ်အတွင်း၌စေတီတော်ပြုပြင်ရာတွင် တူးဖော်တွေ့ရှိ၍ အင်္ဂလန်ပြည် ပြတိုက်သို့ ပင့်ဆောင်ပူဇော်ထားရာမှ အိန္ဒိယနိုင်ငံမဟာဗောဓိအသင်းမှ ကြိုးပမ်း၍ ပြန်လည် ပင့်ဆောင်ကာ ထို ဝေဒိသကတောင်ရံ (ယခုအခါ ဆန်ချီ) အရပ်ရှိ စေတီတော် ၌ပင် ဌာပနာခြင်းပြုသည်။ (ဆန်ချီ — ရှု။) ဓာတ်တော်များကို ဌာပနာခြင်းမပြုမီ မြန်မာနိုင်ငံတော်အစိုးရက မြန်မာနိုင်ငံတော်သို့ပင့်ဆောင်၍ မြို့ရွာများစွာတွင် လှည့်လည် ပူဇော်စေသည်။ ဓာတ်တော်ဌာပနာပွဲကို ၁၉၅၂ ခုနှစ်နိုဝင်ဘာလက ကျင်းပရာ လွန်စွာစည်ကားလှ၍ မြန်မာနိုင်ငံမှ ဝန်ကြီးချုပ်ဦးနုနှင့် ဗုဒ္ဓဘာသာဝင်များပါဘက်ရောက်ကြသည်။

ရှင်သာရိပုတ္တရာ၏ ညီတော်သုံးပါးတွင်  ရှင်ဥပသေန ကား တပည့်ပရိသတ်နှင့်တကွ ထက်ဝန်းကျင် ကြည်ညိုဖွယ် အကောင်းဆုံးရဟန်း အဖြစ် သမန္တပါသာဒိက တေဒဂ် ရ၍ ရှင်ရေဝတသည် မွေ့လျော်ဖွယ်ရှိသော တောအရပ်၊ ဆွမ်းရလွယ်သော တောအရပ်ဟူ၍ မရွေးချယ်ပဲ ကြမ်းတမ်းဆိုးရွားလှသော တောအရပ်၌ပင် တောရ ဆောက်တည်နေသောကြောင့် အရညကတေဒဂ် ရပြီးလျှင် အရှင်စုန္ဒသည် တေဒဂ်မရသော အသီတိသာဝက ဖြစ်သည်။ နှမတော်သုံးယောက်ဖြစ်သည့် စာလာ၊ ဥပစာလာ၊ သီသူပစာလာတို့လည်း သာသနာတော်၌ ဘိက္ခုနီပြုလုပ်၍ ရဟန္တာ မိန်းမများ ဖြစ်ကြကုန်သည်။ (ရေဝတထေရ် — လည်းရှု။)

**သာလိကာ။** ။သာလိကာကို လူတိုင်း မမြင်ဘူးကြသည်တိုင်အောင် လူသိအများဆုံး ငှက်များတွင် အပါအဝင်ဖြစ်သည်။ လူပြောသည့် စကားကို လိုက်၍ ပြောတတ်သောကြောင့် အချို့က သာလိကာကို လှောင်အိမ်တွင် ထည့်၍ ချစ်စနိုး မွေးထားတတ်ကြသည်။ သာလိကာကို သာရကာဟုလည်း ခေါ်သည်။ သာလိကာသည် စတာနီဒီးမျိုးရင်းတွင် ပါဝင်၍ ပါဏဗေဒ အလိုအားဖြင့် ဂရက်ကူးလားရီလီဂျိအိုစား အင်တာမီးဒီးယား ဟုခေါ်သည်။ အလျား ၁၀ လက်မ ရှိသည်။ တောင်ပံရှိ အဖြူမှတ်က လွှဲ၍ တကိုယ်



သာရကာဟူ၍လည်းခေါ်တွင်သည့် သာလိကာငှက်

လုံးရှိ အမွေးများသည် မည်းနက်နေသည်။ တောင်ခြေရှိ သစ်တောများတွင်နေ၍ ပင်မြင့်တွင် ကျက်စားသော ငှက်မျိုး ဖြစ်သည်။

သာလိကာများသည် သစ်ပင်ထိပ်ဖျားများတွင် အုပ်ဖွဲ့၍ နေတတ်သည်ကို တွေ့ရသည်။ အထူးသဖြင့် မြန်မာ နိုင်ငံ ပဲခူးရိုးမ ကျွန်းတောများထဲ၌ အနေများသော ငှက်မျိုး ဖြစ်သည်။ ထိုကျွန်းတောထဲ၌ ယင်းတို့၏ ပျော်ရွှင်မြူးတူး ကခုန် နေကြသည်ကို မြင်ရသည်မှာ ပျော်စရာ ကောင်းလှပေသည်။ သာလိကာသည် အခြား ငှက်များ၏ အသံကို အတုခိုး၍ အော်နိုင်သည့်ပြင် လူတို့သင်ပေးသော စကားကိုလည်း ပြောနိုင်သည်။ အထူးခြားဆုံး အချက်မှာ စူးရှသည့် လေချွန်သံကဲ့သို့သော အသံဖြင့်လည်း အော်နိုင်ခြင်း ဖြစ်သည်။

သာလိကာတို့သည် ဥများကို ဧပြီလနှင့်မေလ အတွင်း များသော အားဖြင့် အုလေ့ ရှိကြသည်။ အသိုက် ဟူ၍ ကျကျနန မလုပ်ပဲ မြေကြီးမှ ၁၀ ပေမှ ပေ ၃၀ ခန့်အကွာရှိ သစ်ပင်ပေါ်၌ သဘာဝအလျောက် ဖြစ်ပေါ်နေသော သစ်ခေါင်းတွင် မြက်၊ သစ်ရွက်များကို ခင်း၍ အုလေ့ရှိသည်။ အုစဉ်၌ ဥများသည် တောက်ပသော အပြာရင့်ရောင် ရှိပြီးလျှင် ချောကလက်ရောင်နှင့် နီညိုရောင်အပြောက်များပါရှိသည်။ သို့သော် မကြာမီ တဖြည်းဖြည်း အရောင်မှိန်သွားတတ်သည်။ တမြုံလျှင် နှစ်ဥမှ သုံးဥအထိ ရှိသည်။

သာလိကာများကို အရှေ့တိုင်း နိုင်ငံတိုင်း၌ လိုလိုပင် တွေ့ရသည်။ မြန်မာနိုင်ငံ တောင်ခြေရှိ သစ်တောများတွင် အနှံ့အပြား နေကြသည်။ သို့သော် မြင့်သော တောင်ပေါ် များ၌ကား ယင်းတို့ကို အတွေ့ရနည်းသည်။

**သာလဲပင်။** ။မိုင်းကိုင်စက္ကူ၊ သို့မဟုတ် ရှမ်းစက္ကူပြုလုပ်ရာ၌ အသုံးပြုရသော သာလဲပင်ကို ရုက္ခဗေဒအမည်အားဖြင့် ဗရူးဆိုနီးရှား ပက်ပီရီဖားရား ဟုခေါ်၍ မိုရေစီအီး မျိုးရင်းတွင် ပါဝင်သည်။ အချို့က သာလဲကို တာလဲ ဟုလည်း ခေါ်ကြ၍ ရှမ်းဘာသာဖြင့် မဲ့ဆိုင်လဲ ဟုခေါ်လေသည်။

သာလဲပင်သည် မိုးရေချိန် လက်မ ၅၀ မှ ၇၀ အထိ ရှိ၍ အပူချိန်ဒီဂရီ ၈၀ ကျော်ပြီးလျှင် ပေ ၂,၀၀၀ မှ ၃,၅၀၀ အထိ မြင့်သော ဒေသများရှိ ချောင်းကမ်းပါး အနီး အနားနှင့် ချိုင့်ဝှမ်းများတွင် ပေါက်ရောက်သည်။ နုံးမြေများ၌လည်း စိုက်ပျိုး ဖြစ်ထွန်းသည်။

ထိုအပင်များကို ပစိဖိတ်ကျွန်းများ၊ မလ္လာယုကျွန်းဆွယ်၊ ယိုးဒယား(ထိုင်း)နှင့် ဂျပန်နိုင်ငံများ၌လည်း တွေ့ရသည်။ မြန်မာနိုင်ငံတွင် မုတ္တမ၊ ကျိုက္ခမီ၊ သံလွင်စသော နယ်များ၊ ကယားပြည် တောင်ပိုင်း၊ ဂုတ်ထိပ်၊ မေမြို့နှင့် ဗန်းမော်နယ် များတွင် အများဆုံး ပေါက်ရောက်သည်။

သာလဲပင်သည်ရွက်ကြွေပင်မျိုးဖြစ်သည်။အပင်အလတ်စားမျိုးဖြစ်၍ အမြင့် ပေ ၃၀ ခန့် ရှိတတ်သည်။ အမြစ်စို့ အများအပြား ထွက်သော အပင်မျိုး ဖြစ်ပြီးလျှင် အငုတ်များမှလည်း အပင်များ ကောင်းစွာ ပေါက်နိုင်သည်။

အရွက်များသည် နုစဉ်အခါတွင် အပိုက်များ ရှိတတ်၍ ရင့်သောအခါ ထိပ်ချွန်သော ဘဲဥပုံများ ဖြစ်လာသည်။ အရွက် နှုတ်ခမ်းသားများတွင် ခွေးသွားစိတ်ကဲ့သို့ ဖြစ်နေသည်။ အရွက်များသည် လေးလက်မ မှ ရှစ်လက်မ အထိ ရှည်ကြ၍ အပေါ်ဖက်သည် ကြမ်းလျက် အောက်ဖက်တွင်မူ အမွေးနုများ ရှိလေသည်။

အပွင့်များသည် ကြောင်မြီးတုပန်း သဏ္ဍာန်ကဲ့သို့ ရှည်၍ လုံးသော ပန်းခိုင်များ ဖြစ်ကြရာ တလက်မခွဲမှ သုံးလက်မ အထိ ရှည်သည်။ အသီးသည် အနီရောင် ဖြစ်၍ အချင်း ½ လက်မခန့် ရှိပြီးလျှင် အသားထူလေသည်။

သာလဲပင်၏ အသားသည် မီးခိုးရောင်ဖြစ်၍ ပျော့သည်။ ထင်းအဖြစ် အသုံးများကြသည်။ ပင်စည်၏ အခေါက်သည်လည်း မီးခိုးရောင် ဖြစ်၍ ချောမွတ်သည်။ ရှေးက မြန်မာနိုင်ငံနှင့် ယိုးဒယားနိုင်ငံတွင် အသုံးပြုခဲ့ကြသော ပုရပိုက်များကို သာလဲပင်၏ အခေါက်မှ ပြုလုပ်ခဲ့ခြင်းဖြစ်သည်။ နောင်အခါ ရှမ်းပြည်တွင် မိုင်းကိုင်စက္ကူ၊သို့မဟုတ်ရှမ်းစက္ကူများကို သာလဲပင်၏ အခေါက်အတွင်းသားဖြင့် ပြုလုပ်လာကြ၍ ယခု အခါ ထိုလုပ်ငန်းသည် ရှမ်းပြည်နယ်၏ အိမ်တွင်းမှုလုပ်ငန်းတရပ်ဖြစ်နေလေသည်။ (မိုင်းကိုင်စက္ကူ — ရှု။)

ဒုတိယ ကမ္ဘာစစ် မတိုင်မီက ရှမ်းပြည် မြောက်ပိုင်း သီပေါနယ်တွင် သာလဲပင်မှ စက္ကူထုတ်လုပ်ရေးကို စက်မှုလုပ်ငန်းတရပ် အနေဖြင့် လုပ်ကိုင်ရေးအတွက် ကုမ္ပဏီတခုသည် ထိုအပင်များကို အများအပြား စိုက်ပျိုးရန် စီစဉ်ခဲ့သည်။ သို့သော် အပင်များ ဖြစ်ထွန်းနိုင်မည့် မြေနေရာ ရှားပါးမှု၊ အလုပ်သမား အခက်အခဲနှင့် သယ်ယူ ပို့ဆောင်ရေး ပြဿနာများကြောင့် ထိုအစီအစဉ်ကို လက်လျှော့ခဲ့ရသည် ဟု သိရလေသည်။ ဂျပန် နိုင်ငံတွင် စက္ကူလုပ်ငန်းအတွက် သာလဲပင်များကို စိုက်ပျိုးလုပ်ကိုင်ကြလေသည်။

ရှမ်းပြည်နယ်တွင် မိုင်းကိုင်စက္ကူကို ဆီစိမ်၍ ထီးရွက် ပြုလုပ်ကြသည်။ ပစိဖိတ် ကျွန်းစုများမှ တိုင်းရင်းသားတို့သည် ရှေးအခါကပင် သာလဲခေါက်ကို ပြုပြင်၍ အဝတ် အထည် အဖြစ် အသုံးပြုခဲ့ကြလေသည်။

**သာလွန်မင်းတရား**(မြန်မာ ၉၄၆–၁၀၁၀)။ ။သာလွန်မင်းတရားကြီးသည် ညောင်ရမ်း မင်းဆက် စတုတ္ထ ဘုရင်ဖြစ်သည်။ ဟံသာဝတီ ဆင်ဖြူများရှင် ဘုရင့်နောင် ကျော်ထင် နော်ရထာ၏သားတော် အင်ယ ညောင်ရမ်း မင်းတရားကြီးနှင့် မိဖုရားခေါင်ကြီးဖြစ်သော မင်းတရား မယ်တော်တို့

မှ သက္ကရာဇ် ၉၄၆ ခုနှစ်တွင် ဖွားမြင်သော သားတော် အလတ် ဖြစ်သည်။ ငယ်မည်မှာ သခင်ကြီး (မောင်ကြီး) တည်း။ ခမည်းတော်လက်ထက် မင်းရဲ သိခ်သူ ဘွဲ့နှင့် တလုပ်မြို့ ကံကျေး ခံရတော်မူသည်။ နောင်တော် အနောက်ဖက်လွန်မင်း အထွတ်အမြတ်သို့ ရောက်သော် သတိုးဓမ္မရာဇာ ဟူသော ဘွဲ့ဖြင့် ခြီးမြှင့်ခံရသည့်ပြင် ပြည်ဘုရင် သတိုး ဓမ္မရာဇာ၏ အဆောင်အယောင်များကိုလည်း ပေးတော်မူ၏။ တလုပ်မြို့နှင့်တကွ စလင်းမြို့ ကျောက်ဂူမြို့ ပင်းတရမြို့များကိုလည်း စားရသည်။

သက္ကရာဇ် ၉၅၈ ခုနှစ်တွင် ဟံသာဝတီ နေပြည်တော်ကို တောင်ငူမင်း၊ ရခိုင်မင်းတို့ လုပ်ကြံ၍ ပျက်သော အခါ ဟံသာဝတီ ဆင်ဖြူများရှင် မင်းတရားကြီး သားတော် အငယ် ညောင်ရမ်းမြို့စား မင်းရဲနန္ဒမိတ်သည် အင်းဝမြို့ကို အသစ် တည်ထောင် စံနေလေသည်။ (ညောင်ရမ်းမင်း တရား — ရှု။) ညောင်ရမ်းမင်းတရား နတ်ရွာစံသောအခါ သားတော်ကြီး အနောက်ဖက်လွန်မင်း (မဟာဓမ္မရာဇာ) နန်းတက်သည်။ (အနောက်ဖက်လွန်မင်း — ရှု။) သက္ကရာဇ် ၉၉၀ ပြည့်နှစ်တွင် အနောက်ဖက်လွန် မင်းတရားကြီးသည် ပဲခူးတွင် ချောင်းသစ် အနောက်ဖက်၌ စံနေစဉ် သားတော် မင်းရဲဒိဗ္ဗ လုပ်ကြံ၍ နတ်ရွာစံသောအခါ ညီတော် သတိုးဓမ္မရာဇာနှင့် မင်းရဲ ကျော်စွာတို့ အရှေ့ ရှမ်းပြည်ဖက်သို့ လှည့်လည် တိုက်ခိုက် နေကြဆဲ ဖြစ်သည်။ ခမည်းတော် ညောင်ရမ်း မင်းတရား နတ်ရွာ မစံမီက 'မောင်တို့ ညီနောင် သုံးဦး ကြီးစဉ် ငယ်လိုက် မင်းပြုရစ်' ဟု အမိန့်တော်ရှိခဲ့သည့် အတိုင်း နောင်တော် မင်းတရား မရှိတော့ကြောင်း ကြားလျှင် အင်းဝသို့ အဆောတလျင် ပြန်ကာ သက္ကရာဇ် ၉၉၀ ပြည့်နှစ် တပို့တွဲလတွင် ထီးနန်းကို သိမ်းတော်မူသည်။ ဘထွေးတော်များ အင်းဝကို ရောက်ကြောင်းကြားသည်နှင့် တပိုင်နက် မင်းရဲဒိဗ္ဗသည် ရခိုင်သို့ ပြေးလေသည်။ သို့ရာတွင် မှူးမတ်တို့က ဖမ်း၍ အင်းဝဘုရင် သတိုး ဓမ္မရာဇာသို့ ဆက်သဖြင့် ရေတွင် ဖျောက်တော်မူသည်။

အင်းဝမြို့ကို အလိုတော် ပြည့်ပြီးနောက် သာလွန် မင်းတရားသည် ၉၉၁ ခုနှစ် နတ်တော်လဆန်း ၁၁ ရက်နေ့တွင် ဟံသာဝတီသို့ ချီတက်တော်မူသည်။ ဟံသာဝတီတွင် စံနေစဉ် ခြီးမြှောက်သင့်၊ ဆုပေးသင့် သူတို့ကို ဆုပေးတော် မူသည်။ ရခိုင်ဘုရင်ထံမှ ချစ်ကြည်ရေးသံ စေလွှတ် ရောက်လာသောကြောင့် အပြေ အပြစ် ရေးသား ပြန်ကြားတော်မူသည်။ ဆင်မြင်း ဗိုလ်ပါတို့ကို အလုံးစုံ ဖြည့်တင်းတော်မူပြီးနောက် ဇင်းမယ်၌ ပြည်ရေးရွာမှု အကြွင်းအကျန်တို့ကို သုတ်သင် စီရင်တော်မူရန် ၉၉၂ ခုနှစ် နတ်တော်လဆန်း ၅ ရက်နေ့တွင် ချီတော်မူသည်။ ၉၉၄ ခုနှစ် တန်ခူးလတွင် ဇင်းမယ်ကို အလိုတော် ပြည့်သောကြောင့် ဇင်းမယ်မြို့ရှိ ၅၂ မြို့ကို ရှင်းလင်းသုတ်သင်တော်မူသည်။ ကျိုင်းရုံး၊ ကျိုင်းတုံ စော်ဘွားတို့လည်း သားသမီးတို့ကို လက်ဆောင်တော်ဆက်၍ သစ္စာတော်ခံသည်။ မိုင်းခွင် မြို့သာ အညွှတ်မခံသောကြောင့် ချီတက် တိုက်ခိုက်တော်မူသည်။ ထိုနှစ် နတ်တော်လတွင် မိုင်းခွင်ကို အလိုတော် ပြည့်သဖြင့် တပို့တွဲလတွင် ဇင်းမယ်မှ ပြန်လည်ကြွချီတော်မူရာ ၉၉၅ ခုနှစ်တန်ခူးလတွင် ဟံသာဝတီသို့ ရောက်တော်မူသည်။

သီရိခေတ္တရာ သောကမင်းသည် မင်းအဖြစ်သို့ ရောက်တော်မူလျှင် ရာဇာဘိသေက မခံဦးပဲ၊ လေးနှစ်ပတ်လုံး ပြည်ရေးရွာမှုကို စီရင် သုတ်သင်တော်မူပြီးမှ ရာဇာဘိသေက ခံတော်မူသကဲ့သို့ သာလွန်မင်းတရားကြီးသည် မင်းအဖြစ်သို့ ရောက်တော်မူလျှင် ရာဇဘိသိက် မခံဦးပဲ လေးနှစ်တိုင်တိုင် ပြည်ရေးရွာမှု အစုစုကို စီရင် သုတ်သင်တော်မူပြီးမှ ၉၉၅ ခုနှစ် နတ်တော်လတွင် ရာဇဘိသိက်ပွဲတော်ကြီးကို ခမ်းနားကြီးကျယ်စွာ ခံတော်မူသည်။ သီရိ ဓမ္မရာဇာ မဟာဓိပတိ ဟူသော ဘွဲ့တော်ကိုလည်း ခံယူတော်မူသည်။ ညီတော် မင်းရဲကျော်စွာအား စလင်းမြို့ကို ကံကျေးပြုကာ မင်းရဲသီဟသူ ဘွဲ့နှင့် အိမ်ရှေ့ပေးတော်မူသည်။ ဗညား ကျန်းတောကို ဝန်ရှင်တော် ဝန်ကြီးချုပ် ခန့်တော်မူ၍ နောင်တော် မင်းတရားကြီး ပြည်မြို့ကို တိုက်တော်မူစဉ်က ခေါ်ယူခဲ့သော ၁၃ နှစ်သားအရွယ် ထောင်ငယ်ခေါ် နန္ဒယော်ခေါ်ကို ဝန်ဖက် ခန့်တော်မူကြောင်းဖြင့် ရာဇဝင်ကြီးများ၌ ဆိုသည်။ မင်းညီ၊ မင်းသား၊ မင်းဆွေ စိုးမျိုး၊ မှူးကြီး မတ်ကြီး အသီးအသီးတို့အားလည်း အထိုက်အလျောက် ထီး၊ စည်၊ သင်းကျစ်၊ စလွယ်၊ အဆောင် အယောင်၊ ဘွဲ့၊ အမည်၊ အရည်နှင့် စားရန် မြို့ရွာတို့ကို ပေးတော်မူသည်။ နေပြည်တော် အတွင်းအပြင်ရှိ စေတီပုထိုး၊ ရုပ်တု၊ ဆင်းတု၊ အရိယာ သံဃာ တို့အားလည်း ကြီးစွာသော အလှူကို စီရင်တော်မူ၍ ရက်လည်အောင် လှူတော်မူသည်။ နိုင်ငံတော် အလုံးရှိ အရိယာ သံဃာ၊ သီလဝန်တို့အား ပရိက္ခရာရှစ်ပါး စီရင်တော်မူ၍ လှူတော်မူသည်။ ဘိသိက်ခံပြီးနောက် ယိုးဒယားဘုရင်ထံသို့ အမှာတော်ရေး၍ သံများစေလွှတ်ကာ နှစ်ပြည့် တပြည် ချစ်ကြည်ရေးကို ဆောင်ရွက်တော်မူသည်။

သက္ကရာဇ် ၉၉၆ ခုနှစ်တွင် မော်လမြိုင်သား မွန်တို့ ပုန်ကန်သည်ကို နှိမ်နင်းပြီးနောက် ဟံသာဝတီ နေပြည်တော်၌ ရန်ဆူး ရန်ညှောင့် သန့်စင်ကုန်ပြီဖြစ်သည်တကြောင်း၊ အောက်တလွှား၌ စစ်မက်အရေးအရာများ၍ မြို့ရွာပျက်ကြေ လူနေနည်းပါးလာသည် တကြောင်း၊ ပဲခူးမြစ်သည် တိမ်ကောလာသည်နှင့် ပဲခူးမြို့မှာ သင်္ဘောဆိပ် မဟုတ်တော့သဖြင့် အရောင်းအဝယ် ဆုတ်ယုတ်လာသည် တကြောင်းတို့ကြောင့် ခမည်းတော် နောင်တော်တို့၏ အရိုက်အရာ ရတနာပူရ အင်းဝ နေပြည်တော်သို့ ထိုနှစ် ပြာသိုလတွင် ပြောင်းရွှေ့

စံနေတော်မူသည်။ အင်းဝ၌ ရွှေနန်းတော်သစ်ကို ကြီးကျယ်ခမ်းနားစွာ ဆောက်လုပ်၍ ၉၉၇ ခုနှစ် နယုန်လတွင် ရွှေနန်းသစ် တက်တော်မူကာ ဒုတိယအကြိမ် ဘိသိက်ခံတော်မူသည်။

သက္ကရာဇ် ၁၀၀၉ ခုနှစ် ဒုတိယ ဝါဆိုလပြည့်ကျော် ၁၂ ရက်နေ့တွင် အိမ်ရှေ့ကိုယ်တော်ကြီး မင်းရဲကျော်စွာ နတ်ရွာစံသည်။ အိမ်ရှေ့မင်း မရှိသော် မင်းတရားကြီး၏ သားတော် အမြင့်စား ရှင်တလုပ်သည် လက်နက် လူသူ စုရုံး၍ ပုန်ကန်သဖြင့် မင်းတရားကြီးသည် နန်းတော်မှထွက်ကာ လေးထပ်ကျောင်းတွင် တလခန့် စံနေရသည်။ နောက် အမြင့်စား တိုက်ပွဲတွင် ကျဆုံးသဖြင့် နန်းတော်သို့ ပြန်ဝင်လေသည်။ ထိုသို့ နန်းတွင်းပုန်ကန်မှု သတင်းကို ကြားသောအခါ ကသည်းစော်ဘွားလည်း သောင်သွပ်ကို ထိပါး တိုက်ခိုက်လာသည်။ သို့ရာတွင် မင်းတရားကြီး ရဲမက်တို့ ချီတက်တိုက်ခိုက်လေလျှင် အတိုက်မခံပဲ ဆုတ်၍ နေသည်နှင့် ပြန်လာရသည်။

ဘိုးတော် ဆင်ဖြူများရှင် ဘုရင့်နောင် မင်းတရားကြီး ချဲ့ထွင်တော်မူခဲ့သည့် နိုင်ငံတော်ကြီးကို သာလွန် မင်းတရားကြီးသည် ရှေးက ဖြစ်လာသော အကြောင်းနှင့် လက်ရှိအကျိုးတို့ကို ဆက်စပ် တွေးခေါ်ကာ ပြုစု ပျိုးထောင် ခဲ့သည်။ နိုင်ငံတော်ကြီးသည် စစ်ကို နှစ်ပေါင်းများစွာ မကြာခဏ တိုက်ခိုက်ခဲ့ကြရသဖြင့် လက်ပန်းကျ၍ နေလေသည်။ ထိုစစ်တို့သည် လူဦးရေကို ယုတ်လျော့ စေသည်။ စိုက်ပျိုးရေးကိုလည်း ထိခိုက်စေသည်။ ထိုကြောင့် သာလွန်မင်းတရားကြီးသည် နိုင်ငံတော် အတွက် လက်တွေ့ လိုအပ်နေသော စီးပွားရေး ပြန်လည် ထူထောင်မှုနှင့် လူဦးရေ အင်အား ပြန်လည် ဖြည့်တင်းရေးတို့ကို ဆောင်ရွက်တော်မူသည်။ ထိုသို့ မဆောင်ရွက်မီ လက်ရှိ အခြေအနေမှန်ကို သိရှိရန် သက္ကရာဇ် ၉၉၉ ခုနှစ်တွင် နိုင်ငံတော် လူဦးရေ၊ အိမ်ခြေ၊ မြေအကျယ်အဝန်း၊ ထွက်သည့် အသီးအနှံ၊ စီးပွားရေး အခြေ အနေနှင့် ပေးဆောင် ရသည့် အခွန် အတုတ်တို့ကို စစ်သည့် စစ်တမ်းတခုကို ကောက်ယူတော် မူသည်။ ယခုခေတ် သန်ကောင်စာရင်းမျိုးပင် ဖြစ်သည်။ စစ်တမ်းအားဖြင့် နိုင်ငံတော်၏ လူဦးရေ အခြေအနေကို သိရှိပြီးနောက် တနှစ်တွင် လူဦးရေ တိုးတက်ရေး အတွက် နိုင်ငံတွင်းရှိ ယောကျ်ား မိန်းမ အပျို လူပျို ကလေး သူငယ်၊ မုဆိုးဖို၊ မုဆိုးမ တို့ကို အသက် အပိုင်းအခြားနှင့် စာရင်းကောက်ယူပြီးနောက် အောက်ပါ မင်းမိန့်တခုကို ထုတ်ပြန်လေသည်။

'ငါ ဘုရင်မင်းမြတ်၏ နိုင်ငံတော်အတွင်းတွင် လစ်လပ်နေသည့် အိမ်ထောင်ပျက် မုဆိုးဖို၊ မုဆိုးမများကို သင့်လျော်ရာ အိမ်ထောင် ချရမည်။ အရွယ်ရောက်သော သားပျို၊ သမီးပျိုများကို မိဖအုပ်ထိန်းသူတို့က ထိမ်းမြား ပေးကြရမည်။ မထိမ်းမြားပေးလျှင် လေလွင့် တတ်သည်။ ဤသို့ အလစ်အလပ် မရှိကြမှသာလျှင် နိုင်ငံတော်လူဦးရေ တိုးလိမ့်မည်။'

သာလွန် မင်းတရား ကြီးသည် လူဦးရေ တိုးတက်မှုကို ဆောင်ရွက် သကဲ့သို့ပင် စီးပွားရေး တိုးတက်မှုကိုလည်း ဆောင်ရွက်ခဲ့သည်။ လယ်ယာ လက်ကိုင်မရှိသော ဆင်းရဲသားများအား လယ်ယာရရှိ၍လုပ်ကိုင်စားသောက်နိုင်ရေး၊ အသီးအနှံထွက်သော အင်အား ပိုမို များပြားရေး၊ နိုင်ငံနှင့်တကွ နိုင်ငံသားများက အသုံးအစွဲချွေတာရေးတို့ကို အဓိကထား၍ ဆောင်ရွက်တော်မူသည်။ မင်းတရားကြီး၏ အမိန့်အရ မြို့ရွာ ကြီးကြပ်ကွပ်ကဲသော ပုဂ္ဂိုလ်ကြီးငယ်တို့သည် မိမိတို့ဆိုင်ရာ မြို့ရွာဒေသတို့တွင် လယ်ယာလုပ်ကိုင် စားသောက် သူတို့ ဦးရေကို စစ်ဆေး မှတ်သားပြီး နောက်၊ ထိုသူတို့အတွက် လုပ်ကိုင်ရန် လယ်ယာ မရှိလျှင် ဖြစ်စေ၊ နေထိုင် စားသောက်ရန် အတိဒုက္ခ ကြုံတွေ့လျှင် ဖြစ်စေ မြေယာ ရရှိစေရန်နှင့် 'စားသောက်မှု ချောင်ချိစေရန် စီမံနိုးဆော်၍ ရပ်ရွာ၏ အကူအညီဖြင့် ဆောင်ရွက်ပေးကြရသည်။ ထို့ပြင် လယ်သမား၊ ယာသမားများအား လယ်ယာလုပ်ကိုင်နေစဉ် မင်းမိန့်နှင့်ပင်ဖြစ်စေ အလုပ်ကို ထိခိုက်စေမည့် အနှောင့် အယှက်မျိုး မပြုရန် အမိန့်ထုတ်ဆင့်ထားသဖြင့် လယ်ယာသမားများ စိတ်အေးချမ်းသာစွာ လုပ်ကိုင်နိုင်သောကြောင့် မင်းတရားကြီးလက်ထက်တွင် နိုင်ငံတော်၌ စားရေရိက္ခာ ပိုမို ထွက်ရှိကာ စီးပွားရေး တောင့်တင်းလာလေသည်။

နိုင်ငံတော်၏ ဝမ်းဖြစ်သော ကျောက်ဆည် လယ်တွင်းနယ်များကို တိုးချဲ့ပြင်ဆင်ကာ စစ်ပွဲတွင် လက်ရမိသော သုံ့လူတို့ကို ကျောက်ဆည်နယ်တွင် နေရာချထား၍ ဆည်မြောင်းတို့ကို စောင့်ရှောက် ကြည့်ရှုစေသည်။ စစ်မက်အရေး ရှိလျှင်လည်း လက်နက်ကိုင် အဖြစ် အမှုတော်ကို ထမ်းရွက်စေသည်။ မင်းတရားကြီးသည် ပြည်သူလူထုအား စီးပွားဥစ္စာတိုးတက်အောင် ဖန်တီး ပေးရုံမက၊ ရရှိသော ဥစ္စာကို ချွေချွေတာတာ သုံးစွဲရန် စံနမူနာ ပြခဲ့သည်။ တခါသော် မင်းတရားကြီးသည် စစ်ကိုင်းဖက်သို့ ထွက်တော်မူစဉ် စစ်ကိုင်းမြို့ အရှေ့ဖက် ကျောက်ဆတ်ရွာ၌ ဆင်းရဲသား အိမ်ရှင်မ တဦးသည် လမ်းပေါ်၌ ထမင်းရည် ငှဲ့နေသည်ကို မြင်တော်မူသောကြောင့် ထမင်းရည်ကို ကလေးငယ်များ၊ သို့မဟုတ် မွေးထားသော ခွေး ဝက် စသည်တို့အား တိုက်ကျွေးနိုင်ပါလျက် အလဟဿ စွန့်ပစ် ရမည်လောဟု ကြိမ်ဒဏ်ဆယ်ချက်ရိုက်၍ ငွေ ၃၀ မျှ သနားခဲ့ဘူးလေသည်။ ထို့ပြင် အခါတပါး သမီးတော်သည် ခါသာပိတ်အင်္ကျီကို ဝတ်ဆင်လျက် ရွှေနန်းတော်တိုင်ကိုမှီ၍ ထိုင်နေသည်ကို တွေ့သောအခါ ကျေးတော်ကျွန်တော်မျိုး ဆင်းရဲသားတို့ထံမှ ရသောအခွန်တော်ငွေနှင့် ဝယ်သော အဝတ်အစားကို မရှိမသေ

ဝတ်ရကောင်းလော ဟု ပရိသတ်အလယ်၌ နှုတ်ပစ်တင်တော်မူရုံမက သုံးရက်လုံးလုံး သမီးတော်အား စကားမပြောပဲ နေလေသည်။

မင်းတရားကြီးသည် အဝင်အထွက် အပြောင့် အကောက်မညီညွတ်၊ ကျနစွာ မပိုင်းခြား မသတ်မှတ်ထားသေး၍ ရှုပ်ရှက်ခတ် အရောရော အနှောနှော ဖြစ်နေသော မြို့ရွာနယ်ပယ် အပိုင်းအခြားများကိုလည်း အသေအချာ ဖြစ်စေရန် ပြုပြင်စီမံတော်မူသည်။ မြို့ကြီးများကို အရပ်လေးမျက်နှာပတ်လည်သောင်းတိုင်အတွင်းကိုသာ စီရင်တော်မူစေသည်။ စာချီ၊ စာမြင်၊ ကလန်၊ သံပျင်၊ မြေတိုင်၊ မြေသိမ်းတို့နှင့် စီရင်သည့် တိုင်းခရိုင်များမှာ အရပ်လေးမျက်နှာ ငါးတိုင်ပတ်လည်အတွင်းကိုသာ စီရင်တော်မူစေသည်။ ဆယ်ပြုမြို့ရွာ၊ ရာပြုမြို့ရွာ၊ တိုက်ဝင်မြို့ရွာ၊ ကျေးသီးမြို့ရွာများနှင့်ပြည့်ရတိုင်၊ မြောင်းမြမြို့၊ မှော်ဘီမြို့၊ မော်လမြိုင်မြို့၊ သံလျင်မြို့၊ ဒဂုန် ဆံတော်တည်ရာကုန်း၊ သူရဲ၊ ကြံခင်း၊ ဂူထွတ်၊ ခနုဖြူ၊ ခဲပေါင်မှစ၍ ၁၅၇ မြို့အဝင် တိုက် ၁၄ တိုက်၊မင်းပြုံးသုံးတိုက် သံလျင်သုံးတိုက်၊ ဟံသာဝတီ ခုနစ်တိုက်၊ မုတ္တမခုနစ်တိုက်၊ ပုသိမ် ခုနစ်တိုက်၊ ဒလ သုံးတိုက်၊ ကိဠိပူရ သုံးတိုက်၊ သုဓမ္မဝတီ သုံးတိုက်၊ တိကုမ္ဘနှစ်တိုက်၊ ကေတုမတီ လေးတိုက်၊လင်းဇင်း ၅၇ တိုက်၊ ရေး နှစ်တိုက် စသည်ဖြင့်ခန့်ခွဲကာ မြောက်ဖက် မြင်းမြေ၊ တောင်ဖက်မြင်းမြေ၊ တောင်ငူမြင်းမြေ၊ ရွှေပြည်ကြီးမြင်းမြေ စသည်များ၊ ဝင်းတော်လေးရပ် ဒိုင်းစုလ မိုင်းစု၊ ကိုယ်ရံတော် သေနတ်၊ လှေ၊ ကတ္တူများမှ စ၍ မြေ ပယ် နယ် မှန်သမျှ အစုသားတို့မှာ တရွာလျှင် အရပ်လေးမျက်နှာ နှစ်တိုင်စီ၊ ငါးရာတွင်းစီ ရွာကို အလယ်ထား၍ နယ်လေးရပ် ဖြစ်စေတော်မူသည်။

ဤသို့ပြုပြင်မှုများ၊ပြန်လည်ထူထောင်မှုများကို ဆောင်ရွက်ခဲ့သဖြင့် ထိုမင်းလက်ထက်တွင် နိုင်ငံတော်သည် ပုဂံခေတ်၌ကဲ့သို့ များစွာ စည်ကား သာယာလေသည်။ ယင်းသို့ စီးပွားရေးဖက်တွင် တိုးတက်ဖွံ့ဖြိုးလျက် ရှိခြင်းကြောင့် ဒပ်ချအရှေ့အိန္ဒိယကုမ္ပဏီသည် သံလျင်၊ ဟံသာဝတီနှင့်အင်းဝတို့ဘွင်ငင်း၊ ဗြိတိသျှ အရှေ့အိန္ဒိယ ကုမ္ပဏီသည် သံလျင်၌ငင်း လာရောက်ရောင်းဝယ်ဖောက်ကားကြသည်။

မင်းတရားကြီးသည် နိုင်ငံတော်စီးပွား ဖွံ့ဖြိုးမှုကို အဖက်ဖက်မှ ဆောင်ရွက်တော်မူရုံမက ကုသိုလ်တော် အမှုတို့ကို ပြုတော်မူသည်။ ၉၉၇ ခုနှစ် တော်သလင်းလတွင် ရောဝတီမြစ်၏မြောက်ဖက် အင်းဝရွှေမြို့တော်၏ မြောက်ဖက် မစူးလွန်း၊ အနောက်ဖက် ခပ်ယွန်းယွန်း တန့်တည်အရပ်၌ (ယခု စစ်ကိုင်းမြို့ မြောက်ဖက် ခြောက်မိုင်ကွာ)၌ အမြဲကိုးကွယ်တော်မူသော စွယ်တော်၊ ဆံတော်နှင့် ဓာတ်တော် မွေတော် ရတနာစေတီတော်တို့ကို ဌာပနာ၍ ရာဇမဏိစူဠာစေတီ ဘွဲ့ခံ ကောင်းမှုတော် စေတီကြီးကို တည်ထားကိုးကွယ်သည်။

(ကောင်းမှုတော် — ရှု။) မဟာရံတံတိုင်းဝန်းကျင်၌မှန်ကင်းအထွတ်ရှိသောပြဗ္ဗာဝန်၊ ဒက္ခိဏဝန်၊ ပစ္ဆိမာဝန်၊ ဥတ္တရာဝန် ဟူသော ကျောင်းကြီးလေးရပ်နှင့် ကျောင်းရံ ၄၀ ဆောက်လုပ် လှူဒါန်းတော်မူသည်။ ကောင်းမှုတော် ဘုရားကို ၁၀၀၀ ခုနှစ်တွင် အုတ်များ အပြီးသတ်သော်သည်း ၁၀၀၉ ခုနှစ်တွင် အိမ်ရှေ့မင်းနတ်ရွာစံ၍ နန်းတွင်းပုန်ကန်မှု ဖြစ်နေသဖြင့် ထီးတော်မတင်ရချေ။ ၁၀၁၀ ပြည့်နှစ်တွင် ထီးတင်ရန် စီမံသော်လည်း ထီးတော်မတင်ရမီ ထိုနှစ် တော်သလင်းလဆန်း ၁၀ ရက်နေ့တွင် သက်တော် ၆၇ ခုနှစ်၊ စည်းစိမ်တော် ၁၉ နှစ်၌ မင်းတရားကြီးသည် ရှဘ်တရက် နတ်ရွာစံလေသည်။ စေတီတော်ကြီးကို သားတော် ပင်းတလဲမင်းလက်ထက်တွင် ထီးတင်နိုင်လေသည်။ ယင်းသို့ ရွှေနန်းထက်၌ ညင်ညင်သာ စံလွန်တော်မူသောကြောင့် သာလွန်မင်းတရား ဟု တွင်ကြောင်းဖြင့် ဆိုကြသည်။ အချို့ကလည်း တိုင်းကားပြည်ရွာကို အလွန်အကဲ သာယာအောင် ဆောင်ရွက်တော်မူသောကြောင့် သာလွန်မင်း ဟု တွင်ကြောင်းဖြင့် ယူဆကြသည်။

မင်းတရားကြီး၏အခြားကောင်းမှုတော်တို့ကား တောင်ပလူ (တောင်ဘီလူး) အရပ်မှ ရွှေကျောင်းဘော်၊ ပင်းယရွှေစည်းခုံမှ ရွှေကျောင်းတော်၊ မဟာမြဘ်မုနိ ဘုရား အနောက်ဖက်မှ လေးထပ်ကျောင်း၊ ရွှေမောခေါဘုရား အရပ်လေးမျက်နှာ၌ ဆောက်လုပ်သော ကျောင်းတော်ကြီးများ၊ ဇင်းမယ် ကျိုင်းသေဉ် စသည်မှ ကျောင်းဘော်ကြီးများ၊ စစ်ကိုင်း ရှင်ဖြူရှင်လှ ဘုရား၏ အရှေ့မြောက်ယွန်းနှင့် ပုညရှင်စေတီ အရှေ့ဖက်မှ ကျောင်းတော်ကြီးများ ဖြစ်သည်။ထိုပြင် ဒဂုန် ဆံတော်ရှင်၊ ပြည်ရွှေဆံဘော်၊ တောင်ငူရွှေဆံတော်၊ ပုဂံ ရွှေစည်းခုံ၊ အညာသီဟတော၊ ပဲခူး ရွှေသာလျောင်း အစရှိသော စေတီတော်တို့၌လည်း ရွှေအပြည့်မွမ်းမံတော်မူသည်။ ပိဋကတ်တို့ကိုလည်း ကျမ်းတတ် ဆရာတော်တို့အား တည်းဖြတ်စေ၍ ရွှေဖြင့်ပြီးသော ပိဋကတ်တိုက်တော်ကြီး၌ ထားတော်မူသည်။ မင်းတရားကြီး လျှောက်ထား တောင်းပန်သဖြင့် ပဌမ တောင်ဖီလာ ဆရာတော် စသော ဆရာတော်ကြီး လေးပါးတို့သည် မင်းဘူးစက်တော်ရာဒေသမှ ဘောခြုံများရှင်းလင်း၍ စက်တော်ရာ နှစ်ဆူကို ရှာဖွေတွေ့ရှိဘော်မူကြသည်။ (စက်တော်ရာ — ရှု။)

မင်းတရားကြီးလက်ထက် ပညာရှင်များအား မြှောက်စား အားပေးသဖြင့် စာဆို ပုဂ္ဂိုလ်ကျော်များ ထွန်းကားသည်။ ဝေဿန္တရာပျို့ ရေးသားတော်မူသော တောင်ဖီလာဆရာတော်၊ ရတနာကရ ဝတ္ထုကျမ်း ရေးသော သဒ္ဓမ္မာလင်္ကာရ ဆရာတော်၊ မင်းလှယဉ်နုပျို့ရေးသော ရှင်ကရဝိက စသည်တို့ဖြစ်သည်။ တောင်ဖီလာ ဆရာတော်နှင့် ကိုင်းရွာစား မနုရာဇာတို့ စီရင်ရေးသားသော မနုသာရ ရွှေမျဉ်းဓမ္မ

သတ် ကျမ်းလည်း မင်းတရားကြီးလက်ထက် ပေါ်ထွက်ခဲ့သည်။

**သာသနာ ၅၀၀၀။** ။''ဝဿ သဟဿံ သဒ္ဓမ္မော တိဋ္ဌေယျ'' ဟူသော စူဠဝါပါဠိတော်ကို အထောက်အထားပြု၍ အမြတ်ဆုံး ပါရမီ အလွန်ကဲဆုံး ဖြစ်သော ပဋိသမ္ဘိဒါပတ္တ ရဟန္တာ ဖြစ်နိုင်သောခေတ် အနှစ်တထောင်ကိုသာ ရည်တော်မူ၍ သဗ္ဗညုမြတ်စွာဘုရား ဟောတော်မူသည်ဟု ဘုရားအလိုတော်ကျ ထိမိအောင် ဉာဏ် သက်ဝင်နိုင်သော အဋ္ဌကထာ ဆရာကြီးများက ဖွင့်တော်မူသည်။ မြတ်စွာဘုရား ပရိနိဗ္ဗာန် စံဝင်တော်မူပြီးသည့်နောက် အနှစ်တထောင် အတွင်း၌ ပဋိသမ္ဘိဒါပတ္တဟူသော ပဋိသမ္ဘိဒါလေးပါးနှင့် ပြည့်စုံသော ရဟန္တာများ၊ ဆဠာဘိညရဟန္တာ ဟူသော အဘိညာဉ် ခြောက်ပါးနှင့် ပြည့်စုံသော ရဟန္တာများ၊ တေဝိဇ္ဇ ရဟန္တာဟူသော ဝိဇ္ဇာသုံးပါးရသော ရဟန္တာများ၊ သုက္ခဝိပဿက ရဟန္တာဟူသော ဈာန်မရသေးသည့် ရဟန္တာများ၊ အနာဂါမ်၊ သကဒါဂါမ်၊ သောတာပန်၊ ကလျာဏ ပုထုဇဉ် စသော သာဝကများ အစုံအလင်တည်ရှိ၍ သူတော်ကောင်း တရား ဆုတ်ယုတ်ခြင်းမရှိ၊ ပြန့်လှိုင်စည်ကားမည်ကို ရည်တော်မူ၍ ''ဝဿ သဟဿံ သဒ္ဓမ္မော တိဋ္ဌေယျ'' ဟု ဟောတော်မူသည်။

ပဌမ အနှစ်တထောင် ကျော်လွန်၍ ဒုတိယအနှစ် တထောင်အတွင်းသို့ ရောက်သောအခါ ပဋိသမ္ဘိဒါပတ္တရဟန္တာ မဖြစ်နိုင်တော့ပဲ ပဋိသမ္ဘိဒါပတ္တ ရဟန္တာခေတ် ကွယ်လွန်တော့၏။ ကြွင်းကျန်သော ဆဠာဘိညရဟန္တာစသည့်ခေတ် လေးမျိုးသာ တည်ရှိလေသည်။ အနှစ် နှစ်ထောင် ပြည့်သောအခါ ဆဠာဘိည ရဟန္တာခေတ် ကွယ်လွန်ပြန်၍ ကြွင်းကျန်သော ခေတ်သုံးမျိုးကား တည်ရှိလေသည်။ အနှစ်သုံးထောင်ပြည့်သောအခါ တေဝိဇ္ဇ ရဟန္တာခေတ် ကွယ်လွန်ပြန်၍ ကြွင်းကျန်သော ခေတ်နှစ်မျိုးကား တည်ရှိလေ၏။ အနှစ်လေးထောင် ပြည့်သောအခါ သုက္ခဝိပဿက ရဟန္တာခေတ် ကွယ်လွန်ပြန်၍ သေက္ခခေတ် တမျိုးသာ တည်ရှိတော့သည်။ ထို သေက္ခခေတ်လည်း အနှစ်ငါးထောင်စေ့သောအခါ ကွယ်လွန်လတ္တံ့ ။ ထို့ကြောင့် ဘုရားပရိနိဗ္ဗာန် စံတော်မူပြီးသည့်နောက် အနှစ် ငါးထောင်ပြည့်၍ သေက္ခပုဂ္ဂိုလ်၊ ကလျာဏ ပုထုဇဉ်ပုဂ္ဂိုလ်တို့ ကွယ်လွန်သောအခါမှ မြတ်စွာဘုရား သာသနာတော်ကြီး မရှိပြီ၊ ကွယ်လွန်ပြီဟု ဆိုရသည်။

ဤသို့လျှင် ဘုရားပရိနိဗ္ဗာန် စံတော်မူပြီးသည့်နောက် အနှစ်တထောင်ကျော်လွန်မှ သာသနာတော် အစဉ်အတိုင်း ဆုတ်ယုတ်လေသည်။ အနှစ်တထောင် အတွင်းတွင် ပဋိဝေဓ သာသနာတော်လည်း မဆုတ်ယုတ်သေး။ ပဋိပတ္တိ သာသနာတော်လည်း မဆုတ်ယုတ်သေး။ ပရိယတ္တိ သာသနာတော်လည်း မဆုတ်ယုတ်သေး။ သာသနာသုံးရပ် လှိုင်လှိုင်ကြီး စည်ကားထွန်းလင်းမည်ကို ရည်တော်မူ၍လည်း ''ဝဿ သဟဿံ သဒ္ဓမ္မော တိဋ္ဌေယျ''ဟု ဟောတော်မူသည်။

ဘုရားရှင်အလိုတော်ကျ ထိမိအောင်သိရှိတော်မူကြကုန်သော ဗုဒ္ဓမတညု ကျမ်းပြုမထေရ်ကြီးများ ဖွင့်ပြသော အဋ္ဌကထာလာ စကားများကား —

ပဋိသမ္ဘိဒါ ပတ္တေဟိ ဝဿသဟဿံ၊ သုက္ခဝိပဿကေဟိ ဝဿသဟဿံ၊ အနာဂါမီဟိ ဝဿသဟဿံ၊ သကဒါဂါမီဟိ ဝဿသဟဿံ၊သောတာပန္နေဟိ ဝဿသဟဿံ၊ ဧဝံ ပဉ္စဝဿ သဟဿာနိ ပဋိဝေဓ သဒ္ဓမ္မော ဌဿတိ၊ (ဘိက္ခုနီ ခန္ဓကဝိနည်း၊ စူဠဝါ အဋ္ဌကထာ။)

အဓိပ္ပါယ်ကား ၁။ ပဋိသမ္ဘိဒါ လေးပါးနှင့် ပြည့်စုံသော ရဟန္တာခေတ် အနှစ်တထောင်။
၂။ သုက္ခဝိပဿက ဟူသော ဈာန်မရသေးသည့် ရဟန္တာခေတ် အနှစ်တထောင်။
၃။ အနာဂါမ်ခေတ် အနှစ် တထောင်။
၄။ သကဒါဂါမ်ခေတ် အနှစ်တထောင်။
၅။ သောတာပန်ခေတ် အနှစ်တထောင်။

အနှစ် ငါးထောင်ပတ်လုံး ပဋိဝေဓ သာသနာတော်ကြီး တည်လတ္တံ့ ဟူ၍ရင်း၊

ပဋိသမ္ဘိဒါပတ္တေဟိ ဝဿသဟဿံ၊ဆဠာဘိညေဟိ ဝဿသဟဿံ၊ တေဝိဇ္ဇေဟိ ဝဿသဟဿံ၊ သုက္ခ ဝိပဿကေဟိ ဝဿသဟဿံ၊ ပါတိမောက္ခေဟိ ဝဿသဟဿံ။ (ဒီဃနိကာယ် သမ္ပသာဒနိယသုတ် အဋ္ဌကထာ။)

အဓိပ္ပါယ်ကား ၁။ ပဋိသမ္ဘိဒါ လေးပါးနှင့် ပြည့်စုံသော ရဟန္တာခေတ် အနှစ်တထောင်။
၂။ အဘိညာဉ် ခြောက်ပါး ရသော ရဟန္တာခေတ် အနှစ် တထောင်။
၃။ ဝိဇ္ဇာ သုံးပါးကို ရသော ရဟန္တာခေတ် အနှစ်တထောင်။
၄။ သုက္ခ ဝိပဿက ရဟန္တာခေတ် အနှစ် တထောင်။
၅။ အပါယ်လေးပါးမှ လွတ်မြောက်သော သောတာပန် အစရှိသော အရိယာခေတ် အနှစ်တထောင်။

နှစ်ပေါင်း ငါးထောင်ပတ်လုံး သာသနာတော် တည်လတ္တံ့ ဟူ၍ရင်း၊

ဗုဒ္ဓါနံ ပရိနိဗ္ဗာနတော ဝဿသဟဿမေဝ ပဋိသမ္ဘိဒါနိဗ္ဗတ္တေတုံ သက္ကောန္တိ၊ တတောပရံ ဆဠာဘိညာ၊ တတောပိ အသက္ကောန္တော တိဿော ဝိဇ္ဇာ နိဗ္ဗတ္တေန္တိ။ ဂစ္ဆန္တေကာလေ နိဗ္ဗတ္တေတုံ အသက္ကောန္တာ သုက္ခဝိပဿကာ ဟောန္တိ။

တေနေဝ နယေန အနာဂါမိနော၊သကဒါဂါမိနော၊သောတာ ပန္နာတိ။ (အင်္ဂုတ္တိုရ် အဋ္ဌကထာ၊ သမ္မောဟ ဝိနောဒနီ အဋ္ဌကထာ နှစ်စောင်။)

**အဓိပ္ပါယ်ကား။** ။အထက် ဒီဃနိကာယ် အဋ္ဌကထာ နှင့် အတူတူပင် ဖြစ်သည်။

ဤသို့လျှင် ကျမ်းဂန် အနည်းနည်း လာသည်ကို ထောက်၍ သာသနာတော် ၅၀၀၀ တည်ရှိကြောင်း သိရ လေသည်။

**သာသနာတော်။** ။ပရိယတ္တိ သာသနာ၊ ပဋိပတ္တိသာသ နာ၊ ပဋိဝေဓ သာသနာ ဟူ၍ သုံးပါးရှိ၏။ မြတ်စွာဘုရား ဟောကြားတော်မူအပ်သောပိဋကတ်သုံးပုံကို ပရိယတ္တိ သာ သနာဟု ခေါ်၏။ (ပရိယတ္တိ=သင်ကြားအပ်သောအရာ၊ သို့မဟုတ် သင်ကြားခြင်း) သင်ကြားအပ်သော ပိဋကတ် တော်တို့ကို သင်ကြားခြင်းသည် ပရိယတ္တိသာသနာ မည်၏ ဟု ဆိုလိုသည်။ မည်သည့်အရပ်မှာ မဆို ပိဋကတ်ပေစာ စာအုပ်တွေ အထပ်ထပ် ရှိနေစေကာမူ သင်ကြားမည့်သူ မရှိက ထိုအရပ်မှာ ပရိယတ္တိသာသနာ ထွန်းကားသည်ဟု မဆိုနိုင်သည်ကို သတိပြုလေ။ ကောင်းမြတ်သော အကျင့် အကြံတရားကို ပဋိပတ္တိသာသနာ ဟုခေါ်၏။ (ပဋိပတ္တိ=အ ကျင့်တရား။) သစ္စာလေးပါးကို ထိုးထွင်း သိမြင်နိုင်ခြင်းကို ပဋိဝေဓ သာသနာ ဟု ခေါ်၏။ (ပဋိဝေဒ= ထိုးထွင်း သိမြင်ခြင်း။) ဤသာသနာတော်သုံးပါး ပိုင်းခြားပြဆိုချက် သည် မြန်မာနိုင်ငံ ရဟန်း ရှင်လူတို့ မှတ်ယူ ပြောဆိုနေကြ သောနည်းဖြစ်၏။

ပါဠိကျမ်းဂန်တို့မှာကား ဤသုံးပါးကို သာသနာ ဟူ သော အမည်ဖြင့် မခေါ်။ သဒ္ဓမ္မဟူသော အမည်ဖြင့်သာ ပရိယတ္တိသဒ္ဓမ္မ၊ ပဋိပတ္တိ သဒ္ဓမ္မ၊ ပဋိဝေဓ သဒ္ဓမ္မ ဟူ၍ သုံး ပါးရှိကြောင်းကို ပြဆိုသည်။ (သဒ္ဓမ္မ= သူတော်ကောင်း တရား။) တနည်းအားဖြင့် ပြောရသော် ပါဠိကျမ်းဂန်တို့မှာ ပရိယတ္တိ တပါးကိုသာ သဒ္ဓမ္မဟူ၍၎င်း၊ သာသနာဟူ၍၎င်း အမည်နှစ်မျိုး ခေါ်ဝေါ်သည်။ ပဋိပတ္တိနှင့် ပဋိဝေဓတို့ကို ကား သဒ္ဓမ္မဟူ၍သာ ခေါ်သည်။ သာသနာဟူ၍ မခေါ်။

သာသနာဟူသော အမည်နှင့်စပ်၍ ပါဠိကျမ်းဂန်တို့မှာ ယထာ ပရာဓ သာသနာ၊ယထာနုလောမသာသနာ၊ ယထာ ဓမ္မ သာသနာဟူ၍ သာသနာတော်သုံးပါးရှိကြောင်း ပြဆို ကြသည်။ ထိုသုံးပါးတို့တွင် ဝိနည်းပိဋကကို ရဟန်းများ ကျူးလွန်သည့် အပြစ်အားလျော်စွာ ဆုံးမဟောကြားရာ ဖြစ်သောကြောင့် ယထာပရာဓ သာသနာဟု ခေါ်၏။ (ယ ထာ+အပရာဓ။ယထာ= လျော်စွာ+အပရာဓ= အပြစ်) သုတ္တန်ပိဋကကို သတ္တဝါတို့ အလိုစရိုက်သို့ လိုက်လျောသင့် သည်အားလျော်စွာ လိုက်လျော ဆုံးမဟောကြားရာ ဖြစ် သောကြောင့် ယထာနုလောမ သာသနာဟုခေါ်၏။ (ယ ထာ+အနုလောမ။ ယထာ= လျော်စွာ+အနုလောမ = လိုက်လျောခြင်း။) အဘိဓမ္မာ ပိဋကကို တရားသဘော ရှိ သည်နှင့်သင့်လျော်စွာဆုံးမဟောကြားရာဖြစ်သောကြောင့် ယထာဓမ္မ သာသနာဟု ခေါ်၏။ ဤပါဠိကျမ်းဂန်တို့ ပြဆို ချက်အရ သာသနာသုံးပါးဟူသည် ပိဋကတ်သုံးပုံသာ ဖြစ် ၏။ (သာသနာ= ဆုံးမဟောပြောချက်။) ပိဋကတ်သုံးပုံ သာလျှင် မြတ်စွာဘုရား ဟောကြား ဆုံးမအပ်သော စကား တော်စုဖြစ်၏။

ပမာဆိုသော် ကျောင်းဆရာကြီးက တပည့်များအား စာကို ကောင်းစွာ ကြိုးစားကြရမည်ဟု အမိန့် ပေး၏။ တပည့်များကလည်း ကောင်းစွာ ကြိုးစားကြ၍ စာမေးပွဲ အောင်မြင်သွားကြရာ ပဌမ ဆရာကြီးပေးသည့် အမိန့်နှင့် ပိဋကတ်သုံးပုံသည် တူ၏။ တပည့်များ ကောင်းစွာ ကြိုး စားခြင်းနှင့် ပဋိပတ္တိသည် တူ၏။ စာမေးပွဲအောင်ခြင်းနှင့် ပဋိဝေဓသည် တူ၏။ ဤ ဥပမာမှာ ဆရာကြီးအမိန့်စကား သည်သာ အဆုံးအမဖြစ်၍ တပည့်များ၏ကြိုးစားမှုမှာ အ ဆုံးအမ မဟုတ်တော့ချေ။ ဆရာဆုံးမသည့်အတိုင်း လိုက် နာကျင့်ကြံမှုသာဖြစ်၏။ စာမေးပွဲ အောင်မြင်မှုမှာလည်း အဆုံးအမ မဟုတ်တော့ပဲ ကြိုးစားသည့်အတွက် ပြည့်စုံလာ သော ပညာ အရည်အခြင်းသာ ဖြစ်သည်။ ဤနည်းအတူ မြတ်စွာဘုရား စကားတော်ဖြစ်သည့် ပိဋကတ်သုံးပုံဟု ဆို အပ်သော ပရိယတ္တိသည်သာလျှင် သာသနာ အဆုံးအမ ဖြစ်၍ ပဋိပတ္တိမှာ ပရိယတ္တိဒေသနာ လာရှိသည့်အတိုင်း လိုက်နာကျင့်ကြံမှုသာဖြစ်၍၊ ပဋိဝေဓမှာလည်း ကျင့်ကြံမှု အတွက် ပေါ်ထွက်လာသော မဂ်ဉာဏ်အမြင်သာ ဖြစ်သည် ကို သတိပြုလေ။

ဝိနည်း၊သုတ္တန်၊အဘိဓမ္မာ ဟူ၍ သုံးဌာန ရှိသည့်အနက် တဌာနစီကိုသာ ခွဲ၍ ခေါ်ဝေါ်လိုလျှင် ဝိနယပိဋက၊ သုတ္တ ပိဋက၊ သို့မဟုတ် သုတ္တန္တပိဋက၊ အဘိဓမ္မာ ပိဋကဟူ၍သာ ခေါ်ရမည်။ ပိဋကတ်ဟု တငမ်းပူသတ် မပါစေရ။

(ဝိနယ = ရဟန်းတို့အား ဆုံးမ ပညတ်ချက်+ပိဋက အစုအပေါင်း။) ရဟန်းတို့အား ဆုံးမပညတ်ချက် အစု အ ပေါင်းကို ဝိနယပိဋက၊ သို့မဟုတ် ဝိနည်းပိဋကဟု ခေါ်၏။ (သုတ္တ၊ သို့မဟုတ် သုတ္တန္တ= ဟောပြအပ်သော တရား သ ဘော။) လူနတ်တို့အား မြတ်စွာဘုရား ပြသဟောကြား အပ်သော တရားအစုအပေါင်းကို သုတ်ပိဋက၊ သို့မဟုတ် သုတ္တ ပိဋကဟု ခေါ်၏။ (အဘိဓမ္မ= ပိုမိုထူးခြားသော တရား။) သုတ္တန်ပိဋက၌ ဟောအပ်သော တရားတို့ထက် ပိုမိုများပြား ထူးခြားစွာ တာဝတိံသာနတ်ပြည်၌ ဟော အပ်သော တရားတော်အစုအပေါင်းကို အဘိဓမ္မ ပိဋကဟု ခေါ်၏။ ပိဋကတ်ဟူသော စကားမှာ ပိဋကတ္တယ ဟူသော

ပါဠိမှ လာသောစကားဖြစ်၏။ (ပိဋက+တ္တယ။ တ္တယ= သုံးခုအပေါင်း။ ပိဋကတ္တယ=ပိဋကသုံးပုံ။) သို့ဖြစ်၍ ပိဋကတ်ဟုဆိုလျှင် သုံးပုံလုံး ပါဝင်၏။ တပုံ တပုံစီဖြစ်လျှင် ပိဋကဟု ခေါ်ရမည် ဖြစ်၏။ သို့ရာတွင် သုံးပုံလုံး အစု အပေါင်း၏ ပိဋကတ်ဟူသောအမည်ကို အစိတ်အစိတ် တပုံစီမှာလည်း တင်စားသောအားဖြင့် ပိဋကတ်ဟု ခေါ်နိုင်ပါသေး၏။ လောကမှာ သံဃာတော် ဟူသော အမည်သည် ဘုရား တပည့်သားအားလုံး၏ အမည်ရင်းဖြစ်သော်လည်း ရဟန်း တပါး နှစ်ပါးကိုပင် သံဃာဟု ခေါ်က မမှားနိုင်သကဲ့သို့ မှတ်ရာ၏။

သစ္စာလေးပါးတရားကို ထိုးထွင်းသိမြင်ခြင်းကို ပဋိဝေဓ ခေါ်သည်ဟု ပြဆိုခဲ့ရာ၌ သစ္စာလေးပါးဟူသည် အမှန်လေးပါးပင် ဖြစ်၏။ (သစ္စာ=မှန်ကန်ခြင်း။) လေးပါးမှာ ဒုက္ခသစ္စာ၊ သမုဒယသစ္စာ၊ နိရောဓသစ္စာ၊ မဂ္ဂသစ္စာတို့ ဖြစ်ကြ၏။

ဆင်းရဲခြင်းအမှန်သည် ဒုက္ခသစ္စာမည်၏။ (ဒုက္ခ=ဆင်းရဲခြင်း။) လောက၌ ဆင်းရဲခြင်းအမျိုးမျိုးရှိရာ အကျဉ်းချုပ်၍ပြောရသော် ခန္ဓာကိုယ်ကောင်သည်သာဆင်းရဲခြင်း အစစ်အမှန် ဖြစ်၏။ လူခန္ဓာ ဖြစ်စေ၊ နတ်ခန္ဓာ ဖြစ်စေ၊ ဗြဟ္မာခန္ဓာဖြစ်စေ မည်သည့်ခန္ဓာမဆို ဆင်းရဲ အစစ်အမှန်သာဖြစ်၏။ ခန္ဓာ မရှိမှသာ ဆင်းရဲခြင်းကင်းမည်။ ဘယ်နည်းဖြင့်မဆို ခန္ဓာ ရှိနေသေးသည်ဆိုလျှင် ဆင်းရဲနေသေးသည်သာဖြစ်၏။ ဤသို့မြင်မှ ဒုက္ခသစ္စာကို သိမြင်သည်ဟု ဆိုရမည်။

ဆင်းရဲကြောင်း အမှန်သည် သမုဒယသစ္စာ မည်၏။ (သမုဒယ = အကြောင်း။) လောကမှာ ဆင်းရဲခြင်း၏အကြောင်း အမျိုးမျိုး ရှိသော်လည်း တဏှာဟု ခေါ်သော လောဘတရားသည်သာ ဆင်းရဲခြင်း၏အကြောင်း အစစ်အမှန်ဖြစ်၏။တဏှာနှင့် လောဘသည် အမည်နှစ်မျိုး ဖြစ်သော်လည်း တရားကိုယ်မှာ တခုတည်းသာဖြစ်၏။ ရေငတ်သောသူကဲ့သို့ အာရုံကို ငတ်ငတ် မွတ်မွတ် ဖြစ်တတ်သောကြောင့် တဏှာဟု ခေါ်၍ အလွန် မက်မော တတ်သောကြောင့် လောဘဟု ခေါ်၏။ သတ္တဝါ အပေါင်းတို့သည် နေ့ရောညဉ့်ပါ အခါမလပ် အားထုတ် လုပ်ကိုင်နေကြရခြင်း ဆင်းရဲဟူသမျှ၏ အကြောင်းရင်းမှာ တဏှာလောဘ သာလျှင် အစစ်အမှန်ဖြစ်၏။

တဏှာလောဘ၏ ချုပ်ဆုံးရာဖြစ်သောအေးငြိမ်းမှုသည် ဒုက္ခဟူသမျှ၏ ချုပ်ဆုံးရာအမှန် နိရောဓသစ္စာ မည်၏။ (နိရောဓ=ချုပ်ဆုံးခြင်း။) အေးငြိမ်းမှုဟူသောစကားနှင့် နိဗ္ဗာန = နိဗ္ဗာန်ဟူသောစကားများသည် အဓိပ္ပာယ်အတူတူပင် ဖြစ်၏။

အေးငြိမ်းမှု၏ မွန်မြတ်ကြောင်းကိုသိသာရန်မှာ သဌေးကြီးနှင့် ဝိဇ္ဇာဓိုရ်ကြီးတို့၏ပုံစံကို သတိပြုရမည်။ သဌေးကြီးသည် လောက၌ အရသာအရှိဆုံးသော အစာအာဟာရတို့ကို နေ့စဉ် စီမံစားသုံး၍ နေ၏။ ဝိဇ္ဇာဓိုရ်ကြီးမှာ အာဟာရသိဒ္ဓိ ပြီးနေပြီဖြစ်၍ မည်သည့် အစာအာဟာရ မျိုးကိုမှ မစားချင်၊ သဌေးကြီးစားနေသည့် အစာ အာဟာရ တို့ကိုပင် စက်ဆုပ်ဦးမည်ဖြစ်၏။ ထိုပုဂ္ဂိုလ် နှစ်ဦးတို့တွင် မည်သူ့ကို အစာအာဟာရနှင့် ပတ်သက်၍ ချမ်းသာခြင်း ရှိသည်ဟု ဆိုသင့်သနည်း။

သဌေးကြီးမှာ အစာအာဟာရနှင့်ဆိုင်သည့် အရသာကို ခံစားရခြင်း ချမ်းသာရှိသည်။အေးငြိမ်းမှုကား မရှိ။ အဖိုးတန် အစာရအောင် ရှာဖွေရခြင်း၊ ရပြန်လျှင်လည်း နေရာကျအောင် စီမံရခြင်း၊အသစ် အသစ်လဲလှယ်လိုခြင်းစသော ဆင်းရဲမှုတွေ ဝိုင်းဝိုင်းလည်၍နေ၏။ ခံစားရခြင်း ချမ်းသာဟူသည် ဆင်းရဲမျိုးသာ ဖြစ်သည်ဟု ဘုရား ဟော၏။ ဝိဇ္ဇာဓိုရ်ကြီးမှာကား အစာ အာဟာရနှင့် စပ်လျဉ်း၍ ကြောင့်ကြ အားထုတ်ဖွယ် တစုံတရာမျှမရှိပဲ တခါတည်း အေးငြိမ်းသွားမှု ချမ်းသာသာ ရှိနေတော့၏။

တဏှာလောဘ တရားသည် သဌေးကြီး၏ ခံစားမှု ချမ်းသာကိုသာ မက်မော၏။ ဝိဇ္ဇာဓိုရ်ကြီး၏ အေးငြိမ်းမှု ချမ်းသာကို မက်မောခြင်း မရှိ။ အေးငြိမ်းမှုချမ်းသာကို အာရုံပြုကာ တဏှာလောဘတရား မဖြစ်နိုင်။ တဏှာလောဘ တရားသည် အေးငြိမ်းမှု အာရုံနှင့် တွေ့လျှင် ချုပ်ဆုံး ကွယ်ပျောက် သွားရတော့၏။ ဤသို့ တဏှာလောဘ မဖြစ်နိုင်ပဲ ချုပ်ဆုံးသွားရသည့် အေးငြိမ်းမှုသဘောမှာသာ ဆင်းရဲခြင်း အမှန်ချုပ်ငြိမ်းသွားနိုင်သည်။

ဆင်းရဲခြင်းဟူသမျှ၏ ချုပ်ဆုံးရာ အေးငြိမ်းမှုသို့ ဆိုက်ရောက်ကြောင်း ခရီးလမ်းမှန်သည် မဂ္ဂသစ္စာ မည်၏။ (မဂ္ဂ=ခရီးလမ်း။) အေးငြိမ်းမှုသို့ ဆိုက်ရောက်ကြောင်း ဖြစ်သော ကျင့်စဉ်တရားများကိုပင် ခရီးလမ်းသဖွယ် တင်စား၍ သုံးထားသော စကားဖြစ်၏။ (အင်္ဂ = အစိတ် အပိုင်း။ မဂ္ဂ + အင်္ဂ = မဂ္ဂင်္ဂ = မဂ္ဂင်။) ဤနည်းအားဖြင့် မဂ္ဂင်ရှစ်ပါး တရားသည် မဂ္ဂသစ္စာ မည်၏။ သို့မဟုတ် နိဗ္ဗာန်သို့ သွားရောက်ကြောင်း အမှန်ဖြစ်၏ဟု ဆိုနိုင်၏။

မဂ္ဂင်ရှစ်ပါးဟူသည်ကား

၁။ သမ္မာဒိဋ္ဌိ=ကောင်းမွန် မှန်ကန်သော အယူ အမြင်။ ။ကမ္မဿကတာဉာဏ်သည် သမ္မာဒိဋ္ဌိ၏ အရင်းခံဖြစ်၏။ သတ္တဝါတို့၏ ချမ်းသာခြင်း၊ ဆင်းရဲခြင်းစသည်တို့သည် ရှေးရှေး ဘဝကဖြစ်စေ၊ ယခုဘဝမှာဖြစ်စေ မိမိတို့ပြုလုပ်သော အမှုကံကြောင့်သာ ဖြစ်ရ၏။ အကြောင်းမရှိပဲ ဖြစ်မိဖြစ်ရာ အရမ်း ဖြစ်လာသည်လည်း မဟုတ်။ တဦးတယောက်က စီမံဖန်တီး၍ ဖြစ်သည်လည်း မဟုတ်ဟု သိမြင်သောဉာဏ်ကို ကမ္မဿကတာဉာဏ်ဟု ခေါ်

သည်။ (ကမ္မ + သက + တာ။ ကမ္မ = မိမိတို့ ပြုလုပ်သော အမှုကံ။ သက = မိမိဥစ္စာ။ တာ = အဖြစ်။) မိမိတို့ ရှေးဘဝကဖြစ်စေ၊ ယခုဘဝမှာ ဖြစ်စေ ပြုလုပ်သော အမှုကံသာ မိမိတို့ဥစ္စာဖြစ်သည်ဟုဆိုလို၏။ ဤကမ္မဿကတာဉာဏ်ကိုရလျှင်ပင် သမ္မာဒိဋ္ဌိအဖြစ်သို့ ရောက်ပြီ။ကမ္မဿကတာဉာဏ်ကိုမရလျှင် မိစ္ဆာဒိဋ္ဌိသာဖြစ်၏။

၂။ သမ္မာ သင်္ကပ္ပ = ကောင်းမြတ်သော အကြံ။ (သင်္ကပ္ပ = အကြံ။) သင်္ကပ္ပနှင့် ဝိတက်သည် အဓိပ္ပာယ် အတူတူဖြစ်၏။ လောက၌ နှစ်သက်ဖွယ်ရာ အာရုံတို့ကို တဏှာလောဘအားဖြင့် ရဖို့ရာ ကြံစည်ခြင်းနှင့် သူတပါးတို့ကို ဒေါသအားဖြင့် ဖျက်ဆီး ညှဉ်းဆဲဖို့ရာ ကြံစည်ခြင်းတို့ကို မိစ္ဆာသင်္ကပ္ပဟု ခေါ်သည်။ တရားမမှန်သော အကြံအစည်များ ဖြစ်ကြ၏။ (မိစ္ဆာ=မှားယွင်းခြင်း။) ထို မိစ္ဆာ သင်္ကပ္ပတို့ကို ပယ်ခွာ၍ တဏှာ လောဘ ဒေါသတို့ ကင်းစင်သော အကြံအစည်တို့ကို သမ္မာသင်္ကပ္ပဟု ခေါ်၏။

၃။ သမ္မာဝါစာ = ကောင်းမြတ်သော ဝစီကံ၊ သို့မဟုတ် ကောင်းမြတ်သော နှုတ်ပြောစကား။ (ဝါစာ = စကား။) မိစ္ဆာဝါစာတို့မှ ကင်းသော စကားဟု ဆိုလို၏။ လောက၌ မုသာဝါဒ=မဟုတ်မမှန် ပြောဆိုသောစကား၊ ပိသုဏဝါစာ = ဂုံးတိုက်သောစကား၊ ဖရုသဝါစာ = ကြမ်းကြုတ် ဆဲရေးသော စကား၊ သမ္ဖပ္ပလာပ = တစုံတရာ အကျိုးမရ ညံ့ဖျင်းလှသော စကားတို့သည် မိစ္ဆာဝါစာ လေးပါးဖြစ်ကြကုန်၏။ ဤမိစ္ဆာဝါစာ လေးပါးသို့ လိုက်၍ သမ္မာဝါစာလည်း လေးပါး ရှိ၏။ ဤအရာ၌ သတိပြုရန် အချက်ကား အဘိဓမ္မာအလိုအားဖြင့် မိစ္ဆာဝါစာမှ ရှောင်ကြဉ်ခြင်းကို သမ္မာဝါစာဟုခေါ်၍ သုတ္တန် အလိုအားဖြင့် ကောင်းမြတ်စွာ ပြောဆိုအပ်သောစကားကို သမ္မာဝါစာဟု ခေါ်ခြင်းပင် ဖြစ်၏။ သို့ဖြစ်၍ မိစ္ဆာဝါစာ ပြောခွင့် ကြုံကြိုက်နေရာ မိစ္ဆာဝါစာမှရှောင်ကြဉ်သောအားဖြင့် စကားတစုံတရာမျှ မပြောပဲနေသောသူ သန္တာန်မှာ အဘိဓမ္မာအလိုသာ သမ္မာဝါစာဖြစ်၍ သုတ္တန်အလို မဖြစ်ကြောင်း။ ဓမ္မကထိကပုဂ္ဂိုလ်ကြီး ဟောပြောနေသော တရားစကားများသည် သုတ္တန်အလို သမ္မာဝါစာဖြစ်၍ အဘိဓမ္မာအလို ထိုတရားဟောနေသည့်အခါမှာ ရှောင်ကြဉ်ဖွယ်ရာ မိစ္ဆာဝါစာ ပြောခွင့်နှင့်လည်း မကြုံကြိုက်သဖြင့် ရှောင်ကြဉ်မှု ပြုလုပ်နေရခြင်း မရှိသောကြောင့် မဖြစ်ကြောင်းဘို့ကို ကောင်းစွာမှတ်ယူအပ်၏။ သုတ္တန်အလို၊ အဘိဓမ္မာအလိုဟု ဆိုရာ၌ လူတို့ ခေါ်ဝေါ် ဝေါဟာရပြုကြသည်ကို သုတ္တန်၊ ပရမတ္ထ သဘောတရားကို အဘိဓမ္မာဟုဆိုလိုသည်။ ကျမ်းဂန်တို့မှာ သုတ္တန်ကို ဝေါဟာရ ဒေသနာဟု ခေါ်၍ အဘိဓမ္မာကို ပရမတ္ထ ဒေသနာဟု ခေါ်သည်။

၄။ သမ္မာကမ္မန္တ = ကောင်းမြတ်သော ကာယကံ၊ သို့မဟုတ် ကောင်းမြတ်သောပြုလုပ်မှု။ (ကမ္မန္တ = ပြုလုပ်မှု။) မိစ္ဆာ ကမ္မန္တတို့မှ လွတ်ကင်းသော ပြုလုပ်မှုဟု ဆိုလို၏။ လောက၌ သူ့အသက်ကိုသတ်ခြင်း၊ သူတပါးဥစ္စာကိုခိုးခြင်း၊ သူ့သား အိမ်ရာ ကာမဂုဏ်တို့၌ မှားယွင်း ကျူးလွန်ခြင်း သုံးပါးတို့သည် မိစ္ဆာ ကမ္မန္တ ဖြစ်ကြကုန်၏။ ဤမိစ္ဆာကမ္မန္တ သုံးပါးသို့ လိုက်၍ သမ္မာကမ္မန္တလည်း သုံးပါးပင် ရှိသည်။ ဤသမ္မာကမ္မန္တ၌လည်း အဘိဓမ္မာအလို မိစ္ဆာကမ္မန္တမှရှောင်ကြဉ်ခြင်းကို သမ္မာကမ္မန္တဟု ခေါ်၍ သုတ္တန်အလို ကောင်းစွာပြုအပ်သောအမှုကို သမ္မာကမ္မန္တဟုခေါ်၏။ သို့ဖြစ်၍ မိစ္ဆာကမ္မန္တ ပြုလုပ်ခွင့် ကြုံကြိုက်နေသောသူမှာ ထိုပြုလုပ်ခြင်းမှ ရှောင်ကြဉ်ရန် အိပ်ရာမှမထပဲ အိပ်၍နေလျှင်ပင် အဘိဓမ္မာအလို သမ္မာကမ္မန္တဖြစ်၍ သုတ္တန်အလို ထို အိပ်နေသောသူမှာ ကောင်းစွာ အမှု ပြုလုပ်ခြင်း မရှိသောကြောင့် သမ္မာကမ္မန္တမဖြစ်။ ဘုရားမှာ အမှိုက်တလင်း သုတ်သင်ခြင်း စသော အမှုကိစ္စကို ပြုလုပ်နေသောသူမှာ ကောင်းစွာ အမှုပြုလုပ်နေသည်ဖြစ်၍ သုတ္တန်အလို သမ္မာကမ္မန္တဖြစ်သော်လည်း အဘိဓမ္မာအလို ထိုပုဂ္ဂိုလ်မှာ အမှိုက်တလင်း သုတ်သင်ခြင်းကိစ္စ ပြုလုပ်နေဆဲတွင် ရှောင်ကြဉ်ဖွယ်ရာ မိစ္ဆာကမ္မန္တမှုပြုလုပ်ခွင့်နှင့်မကြုံကြိုက်သဖြင့် ရှောင်ကြဉ်မှု ပြုလုပ်နေရခြင်း မရှိသောကြောင့် မဖြစ်။

၅။ သမ္မာ အာဇီဝ=ကောင်းမြတ်သော အသက်မွေးခြင်း။ သို့မဟုတ် ကောင်းမြတ်သော အသက်မွေးမှု။ (အာဇီဝ = အသက်မွေးမှု။)မိစ္ဆာအာဇီဝတို့မှ လွတ်ကင်းသော အသက်မွေးမှုဟု ဆိုလို၏။ လောကမှာ အသက်မွေး ဝမ်းကျောင်းအတွက်မဟုတ်ပဲ သက်သက် မုသားပြောသော သူမှာ မိစ္ဆာဝါစာ ဖြစ်၏။ထိုမိစ္ဆာဝါစာမှ ရှောင်ကြဉ်လျှင် သမ္မာဝါစာ ဖြစ်၏။ မုသား သက်သေလိုက်၍ စားနေသော သူများ၏ သက်သေခံမှု မုသား ပြောဆို ခြင်းသည်ကား မိစ္ဆာအာဇီဝဖြစ်၏။ ထိုမိစ္ဆာအာဇီဝမှရှောင်ကြဉ်သော အခါ သမ္မာအာဇီဝ ဖြစ်သွားသည်။ ဤမုသာဝါဒ၏ နည်းတူ ပိသုဏဝါစာ၊ဖရုသဝါစာ၊သမ္ဖပ္ပလာပ တည်းဟူသော နောက် ဝစီကံ သုံးပါးတို့မှာလည်း အသက်မွေးခြင်း အကြောင်း မဟုတ်ခဲ့လျှင် မိစ္ဆာဝါစာတွေသာ ဖြစ်ကြ၍ ထို မိစ္ဆာဝါစာတို့မှ ရှောင်ကြဉ်ခြင်းသည်လည်း သမ္မာဝါစာတွေသာ ဖြစ်ကြသည်။ အသက်မွေးခြင်းအကြောင်းတွေ ဖြစ်ခဲ့လျှင် မိစ္ဆာအာဇီဝတွေဖြစ်ကြ၍ ထိုမိစ္ဆာအာဇီဝ တို့မှရှောင်ကြဉ်ခြင်းတို့သည်လည်း သမ္မာအာဇီဝတွေ ဖြစ်ကြ၏။ ဝစီကံ အရာ၌သာ မဟုတ်၊ ကာယကံ အရာ၌လည်း အသက်မွေးခြင်း၏ အကြောင်း မဟုတ်သော ကာယကံသုံးပါးတို့သည် မိစ္ဆာကမ္မန္တသာ ဖြစ်ကြ၍ ထို မိစ္ဆာကမ္မန္တတို့မှ ရှောင်ကြဉ်ခြင်းတို့သည်လည်း သမ္မာကမ္မန္တသာဖြစ်ကြသည်။ အသက်မွေးခြင်း၏ အကြောင်း ဖြစ်သော ကာယကံတို့သည်ကား

မိစ္ဆာအာဇီဝဖြစ်ကြ၍ ထိုမိစ္ဆာ အာဇီဝတို့မှ ရှောင်ကြဉ်ခြင်းတို့သည်သမ္မာအာဇီဝဖြစ်ကြကုန်၏။ ဤသို့လျှင် ဝစီကံ လေးပါး၊ကာယကံသုံးပါး အားဖြင့် မိစ္ဆာအာဇီဝ ခုနစ်ပါးရှိသည့်အတိုင်း သမ္မာအာဇီဝလည်း ခုနစ်ပါးရှိသည်ဟု သိအပ်၏။တံငါမုဆိုးတို့သည် ပါဏာတိပါတ ကာယကံဖြင့်အသက်မွေးမှုပြုနေကြရာ ဥစ္စာမနေ ကြွယ်ဝလာသဖြင့် ထိုတံငါမုဆိုး အလုပ်ကို တခါတည်း ပစ်စွန့် ရှောင်ကြဉ်ပြီးလျှင် ရရှိထားသည့် ဥစ္စာတွေကို သုံးစွဲ စားသောက်နေသော်လည်း အဘိဓမ္မာအလို သမ္မာအာဇီဝဖြစ်၏။ အကြောင်းမှာ ဒုစရိုက်မှုဖြင့် ရရှိထားသည့် ပစ္စည်းကိုပါ စွန့်လွှတ်ရမည်ဟုမဆို၊ မိစ္ဆာအာဇီဝ ဒုစရိုက်မှုကို စွန့်လွှတ်ရှောင်ကြဉ်လျှင် သမ္မာအာဇီဝ ဖြစ်သည်ဟု ပြဆိုသောကြောင့်ဖြစ်၏။ သုတ္တန်အလိုအားဖြင့်ကား မစင်ကြယ်သည့် ပစ္စည်းတွေကို စားသုံး အသက်မွေးနေသေးသောကြောင့် သမ္မာအာဇီဝ မဖြစ်။အကြင်သူ တယောက်သည် မည်သည့်အခါမျှ ဒုစရိုက်မှုမဖက်၊ သက်သက် ဖြောင့်မတ် စင်ကြယ်သော ကုန်သွယ်လယ်လုပ်မှုတို့ဖြင့်သာ အသက်မွေး၍နေ၏။ ထိုသူမှာ သုတ္တန်အလို စင်ကြယ်ကောင်းမွန်စွာ အသက်မွေးနေသူဖြစ်၍ သမ္မာအာဇီဝ ဖြစ်၏။ အဘိဓမ္မာ အလိုအားဖြင့် မဖြစ်။ အကြောင်းမှာ ထိုသူ၌ ရှောင်ကြဉ်ဖွယ်ရာ မိစ္ဆာအာဇီဝ အလျှင်းမရှိသဖြင့် ရှောင်ကြဉ်မှု မပြုရသောကြောင့် ဖြစ်၏။

၆။ သမ္မာဝါယာမ＝ကောင်းမြတ်သော အားထုတ်မှု။ (ဝါယာမ＝အားထုတ်မှု၊ အားထုတ်ခြင်း။) ဤသမ္မာဝါယာမသည် ၁။ ယခုဘဝ၌ မိမိသန္တာန်မှာ တခါတရံမျှမဖြစ်ဘူးသေးသော အကုသိုလ်တရားတို့ကို နောင် ဘယ်အခါမှ မဖြစ်လာရအောင် အားထုတ်ခြင်း၊ ၂။ ယခုဘဝ၌ မိမိသန္တာန်မှာ ဖြစ်ပေါ်ပြီး ဖြစ်ပေါ်ဆဲဖြစ်သော အကုသိုလ်တရားတို့ကို နောင် ဘယ်အခါမှ ဤအကုသိုလ်မျိုး ထပ်၍ မပေါ်ရအောင်ပယ်ရှားနိုင်ရန် အားထုတ်ခြင်း၊ ၃။ယခုဘဝ၌ မိမိသန္တာန်မှာ တရံတခါမှ မဖြစ်ဘူးသေးသော ကုသိုလ်တရားတို့ကို ဖြစ်ပေါ်စေရန် အားထုတ်ခြင်း၊ ၄။ ယခုဘဝ၌ မိမိသန္တာန်မှာ ဖြစ်ပေါ်ပြီး ဖြစ်ပေါ်ဆဲ ဖြစ်သော ကုသိုလ်တရားတို့ကို နောင် ထပ်ကာထပ်ကာ များများကြီး ဖြစ်ပွား၍လာအောင် အားထုတ်ခြင်းအားဖြင့် ပေါင်း လေးပါး ရှိ၏။

၇။ သမ္မာသတိ＝ကောင်းမြတ်သော အောက် မေ့ခြင်း။(သတိ＝အောက်မေ့ခြင်း၊ အမှတ်ရခြင်း။) ၁။ ဗုဒ္ဓါနုဿတိ＝မြတ်စွာဘုရား ဂုဏ်ကျေးဇူးတော်တို့ကို မမေ့မလျော့ အဖန်ဖန် အောက်မေ့ ခြင်း၊ ၂။ ဓမ္မာနုဿတိ＝တရားတော်၏ ဂုဏ်ကျေးဇူးတို့ကို မမေ့မလျော့ အဖန်ဖန် အောက်မေ့ခြင်း၊ ၃။ သံဃာနုဿတိ＝သံဃာတော်၏ ဂုဏ်ကျေးဇူးတို့ကို မမေ့မလျော့ အဖန်ဖန် အောက်မေ့ခြင်း၊ ၄။ သီလာနုဿတိ＝မိမိ စောင့်သုံးအပ်သော သီလ၏ ကျိုးပေါက် ပြောက်ကျားခြင်းမရှိ သန့်ရှင်း စင်ကြယ်သော ဂုဏ်ကို မမေ့မလျော့ အဖန်ဖန် အောက်မေ့ခြင်း၊ ၅။ စာဂါနုဿတိ＝မိမိ စွန့်ကြဲ ပေးလှူအပ်သော အလှူကောင်းမှု၏ စေတနာ မတွန့်တိုခြင်း စသော ဂုဏ်ကို မမေ့မလျော့ အဖန်ဖန် အောက်မေ့ခြင်း၊ ၆။ ဒေဝတာနုဿတိ＝နတ်ပြည်ရှိ နတ်များသည် ရှေးဘဝက သဒ္ဓါ စသော တရားတို့နှင့် ပြည့်စုံခဲ့ခြင်းကြောင့် နတ်ပြည်၌ ဖြစ်၍နေကြသည်။ ငါတို့မှာလည်း ထို သဒ္ဓါစသောတရားတို့နှင့် ပြည့်စုံ၏ဟု နတ်များကို သက်သေထား၍ မိမိ၌ ပြည့်စုံသည့် သဒ္ဓါ စသော တရားတို့ကို မမေ့မလျော့ အဖန်ဖန် အောက်မေ့ခြင်း၊ ၇။ ဥပသမာနုဿတိ＝မိမိသန္တာန်မှာ လောဘ၊ဒေါသ စသော ကိလေသာတို့ မဖြစ်ပေါ်ပဲ အေးငြိမ်းသွားလျှင် မည်မျှလောက်ပင် ချမ်းသာပေလိမ့်မည်၊ ကောင်းမွန်ပေလိမ့်မည်ဟူ၍ ကိလေသာ အေးငြိမ်းခြင်း၏ ဂုဏ်ကို မမေ့မလျော့ အဖန်ဖန် အောက်မေ့ခြင်း၊ (ဥပသမ＝အေးငြိမ်းခြင်း။)၊ ၈။ မရဏာနုဿတိ＝ငါသည် မချွတ်အမှန် သေရလိမ့်မည်ဟူ၍ သေခြင်းသဘောကို မမေ့မလျော့ အဖန်ဖန် အောက်မေ့ခြင်း၊ ၉။ ကာယဂတာသတိ＝ဆံပင်၊ အမွေး၊ ခြေသည်း၊ လက်သည်း စသော ကိုယ်အစိတ်အပိုင်း အဖို့ အစုစုတို့ကို မမေ့မလျော့အောက်မေ့ခြင်း၊ ၁၀။ အာနာပါဏဿတိ＝မိမိထွက်သက် ဝင်သက်ကိုသာ မမေ့မလျော့ အောက်မေ့ခြင်း၊ ဤသို့အားဖြင့် ဆယ်ပါး အပြားရှိ၏။

၈။ သမ္မာသမာဓိ＝စိတ်၏ ကောင်းစွာ တည်ကြည်ခြင်း။ အပြစ်ကင်းသော အာရုံထဲမှာ စိတ်ကြည်လင် ငြိမ်သက်စွာ တည်နေခြင်းကို သမာဓိဟုခေါ်၏။ သမာဓိသည် ပရိကမ္မ သမာဓိ၊ ဥပစာရ သမာဓိ၊ အပ္ပနာ သမာဓိ အားဖြင့် သုံးပါး အပြားရှိ၏။ နူတ်က ဘာဝနာစီးဖြန်းမှု အဖန်ဖန် ပြုလုပ်နေသဖြင့် ဖြစ်ပေါ်သော စိတ်၏တည်ကြည်ခြင်းသည် ပရိကမ္မသမာဓိ ဖြစ်၏။(ပရိ＝အဖန်ဖန်။ ကမ္မ＝ပြုလုပ်အပ်သည်။) ဈာန်ကို ရဖို့ရာ နီးလာအောင် စိတ်၏ အထူး တည်ကြည်ခြင်းသည် ဥပစာရ သမာဓိ မည်၏။ (ဥပစာရ＝အနီးအပါး။) ဈာန်တရားသည် အပ္ပနာ သမာဓိ မည်၏။ (ဈာန＝ဆန့်ကျင်ဖက် အကုသိုလ် တရားတို့ကို လောင်ကျွမ်း စေတတ်သည်။ တနည်း အာရုံ၌ စူးစိုက်တတ်သည်။ အပ္ပနာ＝ကောင်းမြတ်သော အာရုံတွင် သက်ဝင်တည်နေသည်။) ဈာန်နှင့် အပ္ပနာသည် အတူတူပင်။ မဟဂ္ဂုတ်ဟု ခေါ်သော ကုသိုလ်နှင့် ကြိယာတရားများ ဖြစ်ကြ၏။ ဤဈာန်ဖြစ်သော အပ္ပနာသမာဓိကိုမှ သမ္မာသမာဓိမဂ္ဂင်ဟု ခေါ်သည်။

**အဂ္ဂမဟာပဏ္ဍိတ ဆရာလင်း**

# သံဃိသဃရသံဃဦးကိုင်

မြန်မာနိုင်ငံ ဗုဒ္ဓသာသနာ၏ အကြီးအမှူးကို သာသနာပိုင်ဟုလည်း ခေါ်သည်။ သံဃရာဇာဟုလည်း ခေါ်သည်။ သာသနာပိုင်တို့၏ တာဝန်များ၊ အဆောင်အယောင်များ၊ ရှေးပုဂံမင်းများ လက်ထက်မှစ၍ ဗြိတိသျှအစိုးရခေတ်တိုင်အောင် သီလဝန္တ သိက္ခာကာမဖြစ်သော သံဃာတော်ကို သာသနာပိုင်အဖြစ် တင်မြှောက်ခဲ့ပုံတို့ကို စုံလင်စွာ ဖော်ပြထားသည်။

**သာသနာပိုင်များ။** ။သာသနာပိုင်ဟူသည် ဗုဒ္ဓ သာသနာကို ကြီးမှူး အုပ်စိုးသော ပုဂ္ဂိုလ်ဖြစ်သည်။ ယင်း သာသနာပိုင်ကို ဘုရင်မင်းမြတ်နှင့် အစိုးရတို့ကငင်း၊ ရဟန်းသံဃာတို့နှင့် တိုင်းသူပြည်သားတို့ကငင်း တင်မြှောက်ကြသည်။ တင်မြှောက်ရာ၌လည်း ပိဋကတ်တော်၌ ကျွမ်းကျင်လိမ်မာ၍ သီလဝန္တ သိက္ခာကာမ ဖြစ်သော ရဟန်းတော်ကိုသာ တင်မြှောက်လေ့ရှိကြသည်။

သာသနာပိုင်၏ တာဝန် ဝတ်တရားမှာ ဗုဒ္ဓ သာသနာတော်အတွင်း၌ ဖြစ်ပေါ်လာသော အဓိကရုဏ်းမှု၊ သာသနာတော်ထမ်း ရဟန်း သာမဏေတို့ကို ငြိမ်ဝပ် ပိပြားအောင် အုပ်ချုပ်မှု၊ ဝါဆို ဝါကပ် ရက်ငင် စသော သာသနာရေး သာသနာတော် မှုတို့ကို မြတ်စွာဘုရား တရားတော်နှင့်အညီ စီရင်ဆုံးဖြတ်ရခြင်းတို့ ဖြစ်သည်။

အဆောင်အယောင်တို့မှာ အခမ်းအနားဖြင့် ကြွတော်မူလျှင် အသုံးပြုရန် လူထမ်းသော ပြာသာဒ်ယာဉ်၊ ကန်တော့အမြောက် ကိုးချက်၊ မှန်စီရွှေချသိုင်း နှစ်၊ ကျိုင်း နှစ်၊ ယပ်မား နှစ်၊ ရွှေထီး ရှစ်၊ ထီးဖြူ လေး၊ ရွှေဝင်း လက်နက်ကိုင် ၁၀၀၊ နောက်ဝင်း လက်နက်ကိုင် ၁၀၀ တို့ကို ဘုရင်မင်းမြတ်နှင့် အစိုးရတို့က စီမံပေး၍ မဟာဒါန်ဝန်၊ မဟာဒါန်စာရေး၊ မဟာဒါန်လုလင်တို့ ခြံရံလိုက်ပါရသည်။

သာသနာပိုင်ကို သာသနာပြု ဟူ၍လည်း သုံးစွဲကြသေးသည်။ မြတ်စွာဘုရား လက်ထက်ကပင် မြန်မာနိုင်ငံသို့ ဗုဒ္ဓသာသနာ ရောက်ရှိနေသော်လည်း ထိုထို စာအုပ် စာတမ်းတို့၌ ဗုဒ္ဓသာသနာကို ကြီးမှူး အုပ်စိုးသော ရဟန်းတော်ကို သာသနာပိုင်ဟု သုံးစွဲလေ့မရှိကြ။ သာသနာပြုဟူ၍သာ သုံးစွဲလေ့ရှိကြသည်။ သာဓကကား 'တတိယ သင်္ဂါယနာ တင်ပြီးသောအခါ ကိုးတိုင်းကိုးဌာနသာသနာပြု စေလွှတ်သည်။ သာသနာပြု မထေရ်၊ သာသနာပြုအပ်သည်' စသော စကားတို့ဖြစ်သည်။

ပုဂံပြည် အလောင်းစည်သူမင်းကြီး လက်ထက် သာသနာ နှစ် ၁,၆၀၀ ကျော်လောက်က အကြောင်းအရာတို့ကို ရေးသားထားသော မဟာရာဇဝင်တော်ကြီးနှင့် သာသနာလင်္ကာရ စာတမ်းတို့၌ 'ရှင်အရဟံ ပရိနိဗ္ဗာန် ပြုတော်မူ၏။ ရှင်အရဟံ ပရိနိဗ္ဗာန် ပြုတော်မူလျှင် ရှင်အရဟံ၏ အရာကို စိမ်းညက်မင်း သားတော် မဟာထေရ်ကိုပေး၍ သာသနာပိုင် ပြုရ၏။ သွားလေရာရာ၌ ရွှေထမ်းစင်နှင့် သွားရ၏။' ဟု အဆိုရှိသည်။မဲထီးဆရာတော်ဘုရားကြီးစီရင်အပ်သော ဝံသဒီပနီ၌ကား 'ရှင်အရဟံ သက်တော် ရှစ်ဆဲ့တနှစ်တွင် ပရိနိဗ္ဗာန် ပြုတော်မူသည်။ ရှင်အရဟံ ပရိနိဗ္ဗာန် ပြုတော်မူလျှင် စိမ်းညက်မင်း သားတော် ဆရာပုံ့သုကူမထေရ်ကို သာသနာရေး အပ်နှင်းတော်မူ၍ ပြုစုရသည်'ဟု အဆိုရှိသည်။ ယင်း စကားတို့ကို ထောက်လျှင် ဗုဒ္ဓသာသနာကို ကြီးမှူး အုပ်စိုးသော ရဟန်းတော်ကို သာသနာပိုင်ဟု ထိုစဉ်အခါက စတင် သုံးစွဲခဲ့ကြောင်း ထင်ရှားသည်။ သုံးစွဲရာ၌လည်း စိမ်းညက်မင်း သားတော် မဟာထေရ်ကိုသာ သုံးစွဲသည်ဟု မယူဆသင့်၊ ရှင်အရဟံကိုပါ သုံးစွဲသည်ဟု ယူဆသင့်သည်။

သာသနာပိုင်ကို ပါဠိဘာသာဖြင့် သံဃရာဇာ၊ မဟာသံဃရာဇာဟု သုံးစွဲကြသေးသည်။ ယင်း ပါဠိကို တိုက်ရိုက် မြန်မာဘာသာပြန်ဆိုလျှင် ရဟန်းသံဃာတို့၏ မင်း၊ ရဟန်းသံဃာတို့၏ မင်းမြတ်ဖြစ်သည်။ ထိုသို့ သုံးစွဲကြသော်လည်း သာသနာပိုင်ကိုသာ သံဃရာဇာဟု သုံးစွဲသည် မဟုတ်။ ရဟန်းသံဃာတို့အတွက် လှူဒါန်းထားသော ဝတ်မိုး ဝတ်မြေမှရသော အခွန်ဘဏ္ဍာတို့ကို သိမ်းဆည်းရသည့် 'ဝတ္ထုကံသိမ်း' ကိုလည်း သံဃရာဇာ ဟု သုံးစွဲကြသေးသည်။ သာဓကကား ပင်းယပြည် ဥစ္စနာ မင်းကြီးသည် စကားခုနစ်ကျောင်းကို ဆောက်လုပ်ပြီးလျှင် အရှင် သုဓမ္မ မဟာသာမိ စသော ဆရာတော် ခုနစ်ပါးတို့အား တင်လှူတော်မူ၏။ ကျောင်းနေ တပည့်သံဃာများ သုံးစားရန် ဝတ်မိုးဝတ်မြေတို့ကိုလည်း လှူဒါန်းတော်မူ၏။ အရှင်သုဓမ္မ မဟာသာမိသည် ထိုဝတ်မိုးဝတ်မြေတို့မှ ရရှိသော အခွန်ဘဏ္ဍာတို့ကို လုံ့လမပြုလို၍ ရဟန်း သံဃာတို့ကို (၁) ဝတ္ထုကံသိမ်း၊ (၂)သာသနာစိုး၊ (၃) ဝတ်စားသံဃာဟု သီးခြားထားသည်။ ဝတ္ထုကံသိမ်းကား အခွန်ဘဏ္ဍာတို့ကို ကောက်ခံ သိမ်းဆည်းရသည်။ သာသနာစိုးကား တရားနှင့်အညီ ကျင့်ဆောင်ကြရန် ဆုံးမရသည်။ ဝတ်စား သံဃာကား ဝေဖန်သော အဖို့အစုကို စားရသည်။ ယင်း သုံးပါးတို့တွင် အခွန်ဘဏ္ဍာတို့ကို ကောက်ခံ သိမ်းဆည်းရသော ဝတ္ထုကံသိမ်းကိုလည်း ထိုစဉ်အခါက သံဃရာဇာဟု သုံးစွဲလေ့ရှိခြင်းဖြစ်သည်။

ထိုသံဃရာဇာ ဟူသော စကားကိုလည်း သာသနာပိုင်ဟူသော စကားကို မသုံးစွဲမီ၊ ပုဂံပြည် မင်းငါးဆဲ့ငါးဆက်

ရှိရာ၊ နှစ်ဆယ်ဆက်မြောက်မင်း အကြောင်းအရာကို ရေးသား ထားသော မဟာရာဇဝင်တော်ကြီး၌ 'မိဖုရားဆရာ သံဃာရာဇာ မင်းဖြစ်တော်မူ၏။ ပါပစုတ်သား မင်းတရားလည်း ဟူ၏။ ပုပ္ပား စောရဟန်းလည်း ဟူ၏။'ဟု အဆိုရှိသည်။ ယင်းစကားကို ထောက်လျှင် ထိုစဉ်အခါက စတင်၍ သံဃရာဇာဟူသော စကားကို သုံးစွဲလာကြောင်း ထင်ရှားသည်။ ထိုမင်းကား ရဟန်းလူထွက်ဖြစ်၏။ ရဟန်းဖြစ်စဉ်က အရည်းကြီး ရဟန်းတို့ အနွယ်အဆက်ဖြစ်၍ ယင်းရဟန်းတို့ကို ကြီးမှူး အုပ်စိုးသော သံဃရာဇာ ဖြစ်ခဲ့ဟန်တူသည်။

အထူးအားဖြင့် ပုဂံခေတ်မှစ၍ အင်္ဂလိပ်ခေတ် တိုင်အောင် သာသနာကို စောင့်ရှောက် ထိန်းသိမ်းသော ရဟန်းသံဃာတို့မှာ ဆရာတပည့် အစဉ်အဆက် ဆင်းသက်လျက်ရှိသော်လည်း အချို့မင်းတို့သည် သံဃရာဇာ သာသနာပြု သာသနာပိုင် တင်မြှောက်ကြ၏။ အချို့မင်းတို့သည် မတင်မြှောက်ကြကုန်။ တင်မြှောက်သောမင်း လက်ထက်၌သာ ထင်ရှားကုန်၏။ ထိုသို့ထင်ရှားသော သံဃရာဇာ သာသနာပြု၊ သာသနာပိုင်တို့ကို ရာဇဝင်၊ မဟာဝင်၊ သီလဝိသောဓနီ၊ ဝံသဒီပနီ၊ သာသနာ လင်္ကာရ စာတမ်း၊ သာသန ဝံသပ္ပဒီပိကာပါဌ်၊ အာစရိယ ဝံသ ပါဌ်အနက်၊ သာသနဝံသ စာတမ်း၊ ဆရာတော် သံဃာတော်တို့ စာရင်း၊ သာသနဝံသ ဒီပနီနှင့် ထိုဆရာတော်တို့၏ ထေရုပ္ပတ္တိတို့မှ အကျဉ်းချုပ် ထုတ်နုတ် ရေးသားပါအံ့။

**(၁) ပန်တူကြီး သံဃရာဇာ။** ။ပန်တူကြီး သံဃရာဇာကား စစ်ကိုင်းမြို့နယ် ယခုအခေါ် ပဒူရွာ၊ ရှေးအခေါ် ပန်တူရွာတွင် ဖွားမြင်သည်။ မွေးဇာတိ ရွာအမည်ဖြင့် ပန်တူကြီး သံဃရာဇာဟု တွင်၏။ ပန်တူကြီးရွာ အနီး၌ စည်းခုံကြီးကိုလည်း တည်ထားခဲ့၏။ ပိဋကတ် ဗေဒင်၌ ကျွမ်းကျင် လိမ္မာ၏။ လောက ဗဟုသုတရှိ၏။ ပိဋကတ်ကျမ်းဂန်မှာ အတန်အရာသာ၊ ဗေဒင်ကျမ်းကို နည်းမှီး၍ လောက ဒီပနီကျမ်းကို စီရင်သည်။ လိင်-အန်-ဝိဘတ်-အနေအထားမသင့်သည့်အရာများ၏ဟူ၍ပညာရှိတို့ဆိုကြသည်။ ထိုသံဃရာဇာသည် သတိုးမင်းဖျား၏ အိပ်မက်ကိုဖတ်ရ၏။

သတိုးမင်းဖျားသည် သက္ကရာဇ် ၇၂၆ ခု တပေါင်းလ အင်းဝမြို့ တည်မည်ဟု စီရင်တော်မူစဉ် ညဥ့်အခါ၌ (၁) မြို့တည်မည့် အရပ်၌ လက်ပံပင်ကြီးတပင် ရောက်၏။ (၂) အသက်ဖျား၌ ဆဒ္ဒန်ဆင်ပျံနား၏။ (၃) ခက်မ လေးဖျား၌ ပရိက္ခရာ ရှစ်ပါးနှင့်တကွ ရဟန္တာလေးပါး နေ၏။ (၄) အပင်ရင်း၌ ခြင်္သေ့စောင့်၏။ (၅) အမြစ်ဖျား၌ နဂါးစောင့်၏။ (၆) ခက်မလေးဖြာ၌နေသော ရဟန္တာလေးပါးကို ဂဠုန် သုတ်ယူ၏။ ဤခြောက်ပါးသော အိပ်မက်ကို မြင်မက်သည်။

ထိုအခါ ပန်တူကြီး သံဃရာဇာက (၁) လက်ပံပင်တို့ သဘောသည် သုံးနှစ် တကြိမ် ထူးလွန်၍ စည်ပင်သကဲ့သို့ သုံးနှစ်တကြိမ် ထူးလွန်၍ ရွှေပြည်တော် သာယာစည်ပင်မည်။ (၂)ဗုဒ္ဓဟူးသားမြို့တည်မည်။ (၃) သာသနာတော် ထွန်းလင်းမည်။ (၄) ရန်သူအပေါင်းတို့ ကြောက်ရွံ့ ခိုညွှတ်မည်။ (၅)ပြည်တော်ဝယ် အဆုံးစွန်သောမင်းသည် စနေနံ ဖြစ်မည်။ (၆)တနင်္ဂနွေသား မင်းပြုသောအခါ သာသနာတော်ကို အထူးသဖြင့် သုတ်သင်မည် ဟု အိပ်မက်ကို ဖတ်ကြားတော်မူသည်။

**(၂) ပင်လယ်ကျေး သံဃရာဇာ။** ။ပင်လယ် ကျေး သံဃရာဇာကား အင်းဝခေတ်တွင် ထင်ရှား၏။ ပိဋကတ် ဗေဒင် တတ်မြောက်လိမ္မာ၏။ မင်းကြီးစွာ စော်ကဲသည် အသက် ကိုးနှစ်ရှိ မင်းဆွေနှင့် အသက် ခုနစ်နှစ်ရှိ မင်းသိဒ္ဓတ် သားတော်နှစ်ပါးကို ပင်လယ်ကျေး သံဃရာဇာအား အပ်နှင်းတော်မူ၏။ သံဃရာဇာလည်း မင်းသားငယ်တို့ ဇာတာကိုမြင်လျှင် မင်းဖြစ်မည်ဟုသိသဖြင့် အလျင်အမြန် မင်းဖြစ်စေလိုသောကြောင့် (သိဒ္ဓံ နမော ဗုဒ္ဓါယ အအာ ဣဤ ဥဦ ဧဩ)မှ စ၍ ပညာ သင်ကြားတော်မူသည်။ မင်းဆွေသည် အသက် တဆဲ့နှစ်နှစ် ရှိသောအခါ တညဥ့်တွင် မိမိကိုယ်မှအူထွက်၍ အင်းဝမြို့အလုံးကို ပတ်မိသည်ဟု အိပ်မက် မြင်မက်သဖြင့် သန်ကောင်ကျော်အချိန် ဆရာတော်ကို နှိုး၍ လျှောက်ထားသည်။ ဆရာတော်လည်း အိပ်မက်ကိုကြားလျှင်ကြားခြင်း ထ၍ မင်းသားကိုခြေဖြင့် ကန်ရာ တုံးလုံး လည်းသွား၏။ ထိုအခါ မင်းသားက သို့စဉ်ဘိုင်အောင် ပြုဘိသည်ဟု လျှောက်ထားရာ၊ ဆရာတော်က ငါပဥ္စင်းပျို ငါးဝါရက တောင်ဘီလူး ပရက္ကမမှာ စာသင်နေစဉ် လေလာရာ ငါ့ဦးထုပ် ကျသည်ကို ခြေနှင့် နင်းမိသဖြင့် မချွတ် မင်းဆရာဖြစ်မည်။ မင်းဆရာဖြစ်လျှင် တန်တားဦးကို ယက်မလျှို အမိုးနှင့် တန်တားလုပ်မည်ဟု အဓိဋ္ဌာန် ရှိသည်။ မင်းသား မြင်မက်သော အိပ်မက်အလို မကြာမတင် မင်းဖြစ်မည်။မင်းဖြစ်သောအခါ ငါ့ကိုမေ့မည်စိုး၍ ခြေဖြင့်ကန်သည်။ မင်းဖြစ်သောအခါ ငါ့အဓိဋ္ဌာန် အတိုင်း လုပ်ပါဟု မိန့်ကြားသည်။ ထိုအခါ မင်းသားက စိုးရိမ်တော် မမူနှင့် အလိုတော် အတိုင်း ပြီးစိမ့်မည်ဟု လျှောက်ထားသည်။ မင်းသားသည် မင်းဖြစ်သော အခါ ဆရာတော်အမိန့်အတိုင်း တန်တားဦးကို ယက်မလျှို အမိုးနှင့် တန်တားလုပ်တော်မူသည်။

**(၃) အောင်စည်းခုံ သံဃရာဇာ။** ။အောင်စည်းခုံ သံဃရာဇာကား လက်ဝှေ့သတ်အလွန်ကောင်းသည်။လက်ဝှေ့ဆု နှစ်တိုင်း မြင်းတဆဲ့ငါးစီး အစီးနှစ်ဆယ် ရသောဟူ၏။ မင်းခေါင်ကြီးလက်ထက် အုန်းဘောင် စော်ဘွားသည် လက်ဝှေ့သတ်ကောင်းသော ရှမ်းကြီးကို အင်းဝသို့

ခေါ်ခဲ့၍ လက်ဝှေ့ မော်ကွန်းတင်မည်ဟုလာရာ အင်းဝ စစ်ကိုင်းဖက်၌ သတ်သူမရှိသဖြင့် သံဃရာဇာကိုစုံစမ်းသော အခါ သံဃရာဇာက ငါကား အထက်မင်းများ လက်ထက် လူပျိုလူရွယ်ဖြစ်၍ ကျော်စောရုံမျှသာ သတ်သည်။ ယခု အခါ အသက် ခြောက်ဆဲ့ကိုးနှစ်အရွယ် ရှိပြီဖြစ်၍ သေ အောင် သတ်တော့မည်ဟု ဆိုလိုက်သည်။ ထိုအခါ အုန်း ဘောင် စော်ဘွားက မသေပါစေနှင့် တန်ရုံ သတ်ပါဟု လျှောက်ဆိုပြီးလျှင် စကားကျောင်းတော် မော်ကွန်းစိုက် မုတ်ဝတ်ခါးအရှေ့ ငါးတာခြားကုန်း၌ လက်ဝှေ့ပွဲ ကျင်းပ သည်။ မင်းစော်ဘွားမှစ၍ ရဟန်းရှင်လူများလည်း ကုန်း ပြည့်ချ ကြည့်ကြသည်။

ထိုအခါ အောင်စည်းခံ သံဃရာဇာနှင့် ရှမ်းကြီးတို့ သတ်ကြမည်ဟု ကခုန်သိုဆိုပြီးလျှင် သံဃရာဇာက ခြေဖြင့် ခတ်ယောင်ချောက်၍ လက်ယာလက်ဖြင့် ရှမ်းကြီးကိုသတ် လိုက်ရာ ရှမ်းကြီး၏ မျက်နှာသည် နောက်မှာ နေလေ၏။ ထိုအခါ အုန်းဘောင် စော်ဘွားက သေသော်ပင် အမြင် ကောင်းသေး၏၊ ယခုမှာ အမြင်မကောင်းပါ တကားဟု ပြောဆိုလျှင် လက်ဝဲလက်ဖြင့်သတ်လိုက်ပြန်ရာ ရှမ်းကြီး၏ မျက်နှာမှာ ရှေ့မှာနေမြဲနေပြန်လေ၏။ မင်းနှင့် စော်ဘွား တို့လည်း အံ့ဖွယ်သရဲ ရှိလှပေသည်ဟု ဆိုကြ၍ မြင်းနှစ် ကောင် ဖျင်သုံးလိပ်နှင့် ငွေတပိသာ ဆုလပ်ပေးကြသည်။ (အောင်စည်းခံ သံဃရာဇာမှာ ဝတ်မိုးဝတ်မြေမှ ရသော အခွန်ဘဏ္ဍာတို့ကို သိမ်းဆည်းရသော ဝတ္တကံသိမ်း သံဃ ရာဇာ ဖြစ်ဟန်တူသည်။)

**(၄) ရခိုင် မဟာသံဃရာဇာ။** ။ရခိုင် မဟာသံဃ ရာဇာကား ပိဋကတ်ဗေဒင်၌ ကျွမ်းကျင်လိမ္မာတော်မူ၏။ တနေ့သောအခါ ရခိုင်မင်းသည် သရက်မြို့ကို လုပ်ကြံ၍ သရက်မြို့စား မင်းရှင်စောကို သားမယားနှင့်တကွ ရခိုင် ပြည်သို့ ခေါ်လာသည်။ မင်းရှင်စောလည်း ရခိုင်ပြည်သို့ ရောက်လျှင် သားတော်သုံးယောက်ကို ရခိုင်ဆရာတော်ထံ အပ်နှံ၍ ပညာသင်ကြားစေသည်။ တနေ့သ၌ ရခိုင်ဆရာ တော်သည် မင်းသားသုံးယောက်တို့တွင် သားကြီး မြင်စိုင်း ရွှေနန်းရှင်ကား စခုံရေကို သောက်၍ ကုန်၏။ သားလတ် ပြည်မင်း စောရန်နောင်ကား ဖိုဦးမော်ရေကို သောက်၍ ကုန်၏။ သားငယ် မင်းကြီးစွာဖြစ်မည့် စော်ကဲတရာ့ဖျား ကား ရေဝတီရေကိုသောက်၍ကုန်၏ ဟု အိပ်မက်မြင်မက် သဖြင့် အမောင်တို့သုံးယောက် စစ်ကိုင်း ပင်းယသို့ သွား ကြလေ၊ မင်းချည်းဖြစ်လိမ့်မည်။ မင်းဖြစ်လျှင် ငါ့ကိုမမေ့ ကြနှင့်ဟု မိန့်ဆိုသည်။

မင်းသား သုံးယောက်တို့လည်း စစ်ကိုင်း ပင်းယသို့ သွားကြ၍ သားကြီးကား ပင်းယ ဥစ္စနာထံ ခစားလျှင် ဥစ္စနာက မြင်စိုင်း ရွှေနန်းကိုပေး၍ စားရသည်။ သား လတ်လည်း ဥစ္စနာထံ ခစားရာ ဥစ္စနာနန်းစွန့်၍ ညီတော် ငါးစီးရှင် ကျော်စွာ လက်ထက်ရောက်မှ စောရန်နောင် အမည်ဖြင့် ပြည်မြို့ကိုပေး၍ စားရသည်။ သားငယ်ကား စစ်ကိုင်းမင်း ဆင်ဖြူရှင်တရာ့ဖျားထံ ခစားလျှင် အမြင့်မြို့ ကို ပေး၍ စားရသည်။

သက္ကရာဇ် ၇၃၀ ပြည့်၊ အင်းဝ ပြည်တွင် မင်းကြီး စွာစော်ကဲ မင်းအဖြစ်သို့ရောက်ကြောင်း ရခိုင်ဆရာတော် ကြားလျှင် ငါ့ကို မေ့နေသည်ဟု နှလုံးမသာရှိ၍ ဘုန်း တော်ကြီး၍ သက်တော် ရှည်လိုလျှင် အနောက်တောင် ထောင့်၌ စည်းခံတည်လေဟု မှာကြားလိုက်သည်။ မင်းကြီး စွာလည်း မှာကြားသည့်အတိုင်း ၇၄၅ ခုနှစ်တွင် အင်းဝ၌ စည်းခံတည်သည်။ တည်မိလျှင်ပင် အင်းဝပြည်လုံး ထိတ် ထိတ် လန့်လန့် ရှိချေသည်။ ထိုအကြောင်းကို ရခိုင်ဆရာ တော်ကြားလျှင် ငါကား ရဟန်းသားဖြစ်သည်။ မသင့်ချေ ဟု အင်းဝသို့လာပြီးလျှင် ကက္ကိပင်၊ ဆင်ကျုံး၊ မော်ကွန်း၊ သရပါတံခါး၊ ရတနာဂူတည်၍ ရွှေစည်းခံနှင့် ပြိုင်သောအခါ အထိတ်အလန့်မရှိ ပြေငြိမ်းသွားသည်။ မင်းကြီးစွာလည်း ဆရာတော်အား များစွာ ပူဇော် သက္ကာရ ပြု၍ မဟာ သံဃရာဇာဟူသော ဘွဲ့တံဆိပ်ကို လှူသည်။ ယင်း ဆရာ တော်ကား မင်းသားသုံးယောက်ကို ပညာသင်စဉ်က စီရင် ရေးသားသော လောကသာရဆုံးမစာကို အင်းဝသို့ ယူ လာသည်ဟု ဆိုကြသည်။

**(၅) သာသနာပိုင် အမြင့်ဆရာတော်။** ။အမြင့်ဆရာ တော်ကား အမြင့်မြို့၌သီတင်းသုံးသည်။ မင်းကြီးစွာသည် မင်းမဖြစ်မီ စော်ကဲတရာ့ဖျားအမည်ဖြင့် အမြင့်မြို့စားရစဉ် အခါကပင် ကိုးကွယ်သည်။ မင်းအဖြစ်သို့ ရောက်လျှင် အမြင့်မြို့၌ ကျောင်းကြီးဆောက်၍ ကိုးကွယ်ရင်းဖြစ်သော အမြင့် ဆရာတော်အား ထီးဖြူနှင့်တကွ တင်လှူတော်မူ သည်။ သာသနာပိုင်လည်း အပ်တော်မူသည်။ ကျောင်း လည်း သာသနာပိုင်ကျောင်းဟု အမည်တွင်သည်။

**(၆) သာသနာပိုင် အရှင်သဒ္ဓမ္မဋ္ဌိတိ ဆရာတော်။** ။ထို ဆရာတော်ကား တောင်ဘီလူး ပရက္ကမအနွယ် အရှင်သာရ ဒဿီ၏ တပည့်ဖြစ်သည်။ ပြည်မြို့မှအရှေ့စူးစူး တာ ရှစ်ရာမျှ လောက်၊ ရသေ့ပြည်တွင်းမှ အနောက်စူးစူး တာငါးရာမျှ လောက်ကွာသော ကျောင်း၌ သီတင်းသုံး၏။ ကျောင်း မဟာရုံ အတွင်း၌ နာဋ္ဌာဂီရိကုန်း ဟု အများသမုတ်သော အရပ်ရှိသတတ်။ ၇၀၄ ခုနှစ် အင်းဝပြည်တွင် မင်းဖြစ်သော ထုပါရုံဒါယကာ နရပတိမင်းကြီး၏ သားတော်လတ် မင်း ဆင်များကို မင်းကြီးစွာ အမည်ဖြင့် ပြည်မြို့ကို ပေးသော အခါ မင်းကြီးက တောင်ကို ဂူထွတ် တရုပ်မော်၊ အနောက် ကိုဖိုးခေါင်၊ အရှေ့ကို ကုန်းခေါင်၊ မြောက်ကို မလွန်၊ တောင် ခွင် ကျွန်းတော် ဤနယ်လေးရပ်အတွင်း၌ လူဖွေးဖွေးကို

ငါ့သားစီရင်စေ၊ ရှင်ချင်းချင်းကို ငါ့ဆရာစီရင်စေဟု အမိန့်တော်နှင့် အရှင်သဒ္ဓမ္မဋ္ဌိတိ ဆရာတော်ကို သာသနာပိုင် အပ်တော်မူသည်။

**(၇) သာသနာပိုင် အရှင်အရိယဝံသဆရာတော်။** ။ထိုဆရာတော်ကား အရှင် သဒ္ဓမ္မဋ္ဌိတိ၏ တပည့် ဖြစ်သည်။ ကျမ်းဂန် တတ်မြောက်သည်။ အရှင်သဒ္ဓမ္မဋ္ဌိတိတွင် အရှင်အရိယဝံသနှင့် အရှင်မဟာသာမိ တပည့်နှစ်ပါးရှိရာ အရှင်သဒ္ဓမ္မဋ္ဌိတိ ဆရာတော်လွန်လျှင် ပြည်ဘုရင် သတိုးမင်းစောက အရှင်အရိယဝံသကို သာသနာပိုင် အပ်တော်မူသည်။

**(၈) သာသနာပိုင် အရှင် အတုလဝံသ ဆရာတော်။** ။ထိုဆရာတော်ကား ကျမ်းဂန်တတ်မြောက်၏။ အရှင် မဟာသာမိတွင် အရှင်အတုလဝံသနှင့် အရှင်သဒ္ဓမ္မပါလ တပည့်နှစ်ပါးရှိရာ အရှင်အရိယဝံသ လွန်လျှင် ပြည်ဘုရင်နရပတိက အရှင်အတုလဝံသကို သာသနာပိုင် အပ်တော်မူသည်။

**(၉) ချောင်းဆုံ သံဃရာဇာ။** ။ထိုသံဃရာဇာကား ၈၀၄ ခုနှစ် အင်းဝပြည်တွင်နန်းတက်သော ထူပါရုံဒါယကာ နရပတိမင်းလက်ထက် တောင်ငူတွင် ထင်ရှားသည်။ ပုံချီကြီး မိဖုရား စိုးမင်းတို့ ဆင်ကဲသား ဖြစ်သည်။ ပိဋကတ်ပေဒင် ပြည်ထဲရေးမှစ၍ တတ်သိလိမ်မာသည်။ ရှင်မုန်ယိုတောင်ညိုပဉ္စင်းတို့ တပည့်တည်း။

၈၂၀ပြည့်တွင် မင်းငယ်ကျော်ထင်ကိုအသဲ်ယာစောလူးမြေး တေန်စံလုပ်ကြံ၍လွန်လျှင် ဘုရင်နရပတိက အိမ်ရှေ့မင်း မဟာသီဟသူရကို တောင်ငူသို့ စေလွှတ်၍ သိမ်းစေသည်။ ထိုအခါ အိမ်ရှေ့မင်းမှာ သားတော် ဒုတိယမင်းခေါင်နှင့် သတိုးကျော်တို့ ပါလာရာ ချောင်းဆုံ သံဃရာဇာသံလျှောက်ထား၍ ခုနစ်ရက် သာမဏေပြုစေသည်။

**(၁၀) မွန်သံဃရာဇာ။** ။ထိုသံဃရာဇာကား ၈၉၂ခုတွင် တောင်ငူ၌နန်းတက်သော မင်းတရားရွှေထီးလက်ထက် ထင်ရှားသောဆရာတော်ဖြစ်သည်။၉၀၆ခုတွင်မင်းတရားရွှေထီးသည် ဟံသာဝတီပြည် အနောက်ဖက် မွန်ကျောင်းအရပ်၌ ကျောင်းရံ ခုနစ်ဆယ်နှင့်တကွ ကျောင်းကြီးဆောက်လုပ်ပြီး မွန်ဆရာတော်အားတင်လျှူ၍သံဃရာဇာဘွဲ့တံဆိပ်ကိုလည်း လှူဒါန်းသည်။ သာသနာပိုင်လည်းအပ်နှင်းတော်မူသည်။

**(၁၁) ဟံသာဝတီ မဟာသံဃရာဇာ။** ။ထိုမဟာသံဃရာဇာသည် ၉၁၂ ခုနှစ်တွင် နန်းတက်သော ဟံသာဝတီ ဆင်ဖြူများရှင်လက်ထက်၌ ထင်ရှားသည်။ ဟံသာဝတီဆင်ဖြူများရှင်မင်းတရားကြီးသည် သမိန်ဆောရာမကို လုပ်ကြံတော်မူစဉ်ကပင် အောင်မြင်လျှင် သည်အရပ်တွင် မြို့တည်မည်ဟု အမိန့်ရှိသည့်အတိုင်း အောင်မြင်၍ ၉၁၇ ခုနှစ်တွင် ပဌမမြို့တည်သည်။ နောက် ကျောင်းရံလေးဆယ်နှင့်တကွ ဇေတဝန်ရွှေကျောင်းကို ဆောက်လုပ်၍ မဟာသံဃရာဇာအား တင်လှူတော်မူသည်။

**(၁၂) သာသနာပိုင် မဟာသံဃနာထ ဆရာတော်။** ။ထိုဆရာတော်ကား တူးရှင်းခြေတောင်၌ သီတင်းသုံးသော မဟာရာမ ဆရာတော်ဖြစ်သည်။၉၆၇ ခုနှစ်တွင် အင်းဝပြည်၌ နန်းတက်သော အနောက်ဖက်လွန် မင်းတရားကြီးသည် မဟာမြတ်မုနိ ဘုရားအနီး ကျောင်းရံလေးဆယ်ရှိ လေးထပ်ကျောင်းကိုတူးရှင်းခြေတောင်နေဘုန်းတော်ကြီးညွှန်ကြားချက် အရ တူးရှင်းခြေအရပ်၌ နေသော မဟာရာမ ဆရာတော်အား ပင့်ဖိတ်လှူဒါန်းပြီးလျှင် မဟာသံဃနာထ ဘွဲ့တံဆိပ်ကို လှူဒါန်းသည်။ သာသနာပိုင်လည်း အပ်တော်မူသည်။

ထိုစဉ်အခါ ပြည်မြို့မှပင့်လာ၍ မဟာမြတ်မုနိအရံအတွင်း စရပ်၌နေသော တောင်ဖီလာ ပုဂ္ဂိုလ်ကျော်လည်း သာသနာပိုင် ဆရာတော်ထံ ဆည်းကပ်၍ ကျမ်းဂန်တို့ကို ဆွေးနွေးသည်။ သာသနာပိုင် ဆရာတော်လည်း အလွန်နှစ်သက်တော်မူသည်။

**(၁၃) သာသနာပိုင် အတုလ ဆရာတော်။** ။အတုလဆရာတော်ကား သက္ကရာဇ် ၁၀၇၆ ခု ဖွားမြင်သည်။ နံတော် ဗုဒ္ဓဟူးသား၊ ဇာတိ အုတ်ရှစ်ကျေးရွာ၊လူမည် ဦးပန်းထွေး၊ ရဟန်းမည် ရှင်ယသတည်း။ ရတနာသိင်္ဃ ကုန်းဘောင်မြို့တည် အလောင်းမင်းတရားကြီး ကိုးကွယ်သည်။ အတုလဆရာတော်သည် အလောင်းမင်းတရားကြီး တိုင်းရေး ပြည်ရေး လုပ်ကြံရာဝယ် အကြံပေး ဉာဏ်ပေး အဆုံးအမပေးသော ဆရာတော်ဖြစ်သည်။ နည်းပေးဆုံးမသမျှ လိုက်နာအားထုတ်သောကြောင့် အလွန်ခဲယဉ်းသော အမှုမျိုးကိုပင် အောင်မြင်၍ မင်းအဖြစ်သို့ ရောက်ရသည်။

အလောင်းမင်းတရားကြီးသည် ၁၁၁၅ ခုနှစ်တွင်အတုလဆရာတော်အား အတုလ ယသ မဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ကို လှူဒါန်း၍ သာသနာပြု သာသနာပိုင် အပ်တော်မူသည်။ ထိုဆရာတော်ကား ကျမ်းဂန်သင့်ရုံသာရှိသည်၊ နှုတ်အာဝဇ္ဇန်း ကောင်းလှသည်။ ကျန်းဂန်နှင့် မိဘချက် မမိဘချက် ရှိသည်။ စာရိတ္တမွန်မြတ်လှသည် ဟု သီလဝိသောခနိ၌ အဆိုရှိသည်။

နောင်တော်ကြီးသက်ဆက် မင်းရေးစာကို စီရင်တော်မူကြပါ။ သာလွန်မင်းတရားကြီး လက်ထက် စီရင်အပ်သော ပေပေါ်၌ မင်းရေးစာသည် ကောင်းလှ၏ တကာတော်ထင်သည်ဟု မင်းကေရာဇ် လျှောက်သည်ကို အတုလဆရာတော်က သိကြားလာ၍ စီရင်သော် ဖြစ်ကောင်းရာ၏ ဟု မင်းကေရာဇ်မျက်နှာကိုမငဲ့ပဲ မိန့်တော်မူသည်။ ထိုနောက် ဝက်လက်ဆရာတော်စီရင်ရာ သိကြားစီရင်သည်ဟုဘမြို့လုံး အုတ်အုတ်ကျက်ကျက် ပြောဆိုကြလျှင် အတုလဆရာတော်က မင်းရေးသည် အခွန့်ရှည်စွာ မဘည်ဖြစ်၍ တကြောင်း၊ စာသင်ပေသင် စာချ ပေချ ပျက်မည်စိုး၍ တကြောင်း

သိကြားလာ၍စီရင်သော် ဖြစ်ကောင်းရာ၏ဟု ငါဆိုသည်ကို အထင်အပေါ် အကျော်အစောကို ငဲ့၍ စီရင်ရာ သလောဟု ဝက်လက် ဆရာတော်ကို ခြေဖြင့် ကန်သည်။ မင်းကေရာဇ် က ငါ့ဆရာတော်ကို ခြေဖြင့် ကန်ရာသလော ဟု ဆိုရာ၊ ဝက်လက်ဆရာတော်က တပည့်ရင်းဖြစ်၍ အပြစ်အလျှောက် ရောက်စေအပ်သော ဒဏ်ကို မင်းကေရာဇ် ဤသို့ဆိုရာ သလော ဟု မိန့်တော်မူသည်။

အတုလ ဆရာတော်ကား သက်တော် ၇၀၊သိက္ခာတော် ၅၀၊ ၁၁၄၆ ခုနှစ်တွင် လူဝတ်လဲရသည်။

**(၁၄) သာသနာပိုင် တောင်တွင်းကြီးဆရာတော်။** ။ တောင်တွင်းကြီး ဆရာတော်ကား နောင်တော်ကြီး လက်ထက်တွင် သာသနာပိုင် ဖြစ်သည်။ 'ဉာဏာဘိဓမ္မာလင်္ကာရ မဟာဓမ္မရာဇာဓိ ရာဇဂုရု'ဘွဲ့တံဆိပ်တော်ကိုလည်းရရှိသည်။ လောကီ လောကုတ္တရာ ကျမ်းများစွာကို စီရင်ရေးသား ခဲ့သည်။ (တောင်တွင်းဆရာတော် ခင်ကြီးပျော် — ရှု။)

**(၁၅) သာသနာပိုင် စရစ်ဆရာတော်။** ။စရစ်ဆရာ တော်ကား ဆင်ဖြူရှင်လက်ထက်၌ သာသနာပိုင် ဖြစ်သည်။ ကြက်သွန်ခင်း ဆရာတော်ကြီး၏ တပည့်ဖြစ်သည်။ နှလုံး တော် မွန်မြတ်လှ၏။ ကျမ်းဂန်လည်း သင့်မြတ်လှ၏။ အင်း ဝမင်းများ လက်ထက်၌ ပဋ္ဌမကျော် အောင်သည်။ နံတော် အင်္ဂါသားတည်း။ တနေ့သောအခါ ကာမမြို့နေ အရှင် အရိယဝံသသည် စရစ်ဆရာတော် ရှေ့၌ အဖျင်းဖျင်းပြောဆို သည်ကို လောင်းရှည်ဆရာတော်က သာသနာပိုင် အရှူးကို အလိုလိုက်လှသည်ဟု ဆိုလျှင်၊ စရစ်ဆရာတော်က အရူး တယောက်ကြောင့် အကောင်းအများ မရှူးသင့်ဟုသာ မိန့် တော်မူသည်။ တဖန် မန်လည် ဆရာတော်က မင်းကေရာဇ် ဆရာ မဖြစ်မီ ကာလနှင့် မင်းကေရာဇ်ဆရာ ဖြစ်သည့်ကာလ နှစ်ပါးတွင် ဘယ်ကာလ၌ ကုသိုလ် ပွားပါသနည်း မေး လျှောက်သော် စရစ် ဆရာတော်က မင်းကေရာဇ် ဆရာ ဖြစ်သည်ကာလ ပလိဗောဓ များ၍ ဘာဝနာပွားမှု စာ ချမှု များစွာ ခွင့်မရချေဟု မင်းကေရာဇ်ဆရာ ဖြစ်သည်၌ အပြစ်ကို ပြသည်။

၁၁၁ဂ ခုနှစ် တန်ခူးလဆန်း ဆဲ့ငါးရက်နေ့တွင် အလောင်း မင်းတရားကြီးက စရစ်ဆရာတော်အား 'ဇမ္ဗူဒီပ အနန္တဓဇ မဟာ ဓမ္မရာဇဂုရု' တံဆိပ်တော်ကို လှူဒါန်းသည်။ ထိုအခါ သက်တော် ၅၇၊ ဝါတော် ၃၆ ဝါရှိပြီ ဖြစ်၍ ဖွားသက္ကရာဇ် ကို အတိအကျ မသိရသော်လည်း ၁၀၆၁ ခုနှစ် ဖြစ်မည်ဟု ယူဆသင့်သည်။ အလောင်းမင်းတရားကြီးက ဇေတုဝတီမြို့ တော်သို့ ပင့်၍ ကျောင်းဆောက်လှူဒါန်းသည်။ ပဋ္ဌမပြန် စာမေးပွဲနှင့် ပဥ္စင်းခံကာလ ရောက်ပြီ ဖြစ်၍ သာသနာ တော်၏ အမြစ်ဖြစ်သော ပရိယတ်ကို အားထုတ်စေခြင်းငှာ ပါဠိ အဋ္ဌကထာ သရုပ်အဓိပ္ပာယ် မေးချိန်ကာလရောက်လျှင် အဓိပတိ ဆရာနှင့် အားထုတ်တော်မူပါ ဟု စရစ်ဆရာတော် အား အပ်သည်။ တနေ့သောအခါ ဆရာဖြစ်သော ကြက် သွန်ခင်း ဆရာတော်ကြီးကလည်း ပဋ္ဌမပြန် စာမေးပွဲနှင့် စပ် လျဉ်း၍ စရစ်ဆရာတော်အား စရစ် နင်တို့ လက်ဝှေ့ပွဲ မပြီး သေးလော ဟု အမေးခံရဘူးသည်။

ဆင်ဖြူရှင် မင်းတရားကြီးသည် ၁၁၃၃ ခုနှစ် မြို့ကြီး အတွင်းဝယ် ရွှေ ဘုံကျော်ဥမင်ကို ပြင်ဆင်သည်။ ဥမင် အနောက်မြောက်ယွန်းတွင် သာယာလှစွာသော မြေအပြင် ၌လည်း အရံ လေးဆဲ့ခြောက်ကျောင်းနှင့်တကွ လေးထပ် ဇေတဝန် ရွှေကျောင်းတော် ဆောက်လုပ်ပြီးလျှင် ဘုံကျော် စံလွတ်သမိုက်၍ ထိုနှစ် တပေါင်းလဆန်း ရှစ်ရက် အင်္ဂါနေ့ တွင် ဇမ္ဗူဒီပ အနန္တဓဇ မဟာဓမ္မရာဇာဓိရာဇဂုရုစရစ် ဆရာ တော်အား တင်လှူသည်။

**(၁၆) သာသနာပိုင် အရှင်သာပုံ။** ။အရှင်သာပုံကား စရစ် ဆရာတော် လွန်လျှင် သာသနာပိုင် ဖြစ်၏။ ဆင်ဖြူရှင် လက်ထက်က ဖြစ်ဟန် တူသည်။ သာဓကကား "စရစ်ဆရာ တော် လွန်လျှင် တူတော် တပည့်ရင်း ရှင်သာပုံကို မင်း ကေရာဇ် က သာသနာပိုင် ထည့်လျှင် အရှင်သူမြတ်သည် စိတ်ပျိုကိုယ်နုဖြစ်၍ ဝါသနာ အလျောက် သိုင်းကိုင်နှင့် ဆွမ်းခံဝင်သည်ကို ကြက်သွန်ခင်း ဆရာတော်ကြီးနှင့် ပက် ပင်းပါ ကြုံ၍ 'သာပုံ သည်နှင်တံနှင့် နင့်ကို လူကြောက် ချိမ့်မည်လော၊ ကြောက်လောက်အောင် အမြောက်ဆောင်' ဟု မိန့်တော်မူကြောင်း" ပြောစဉ် ရှိသည်။ ထိုအရှင်လည်း အရှက်ရ၍ ဝန်ချရသည်။ မကြာမတင်ပင် လွန်လေသည်။ သည့်နောက်မှ တိလောကဂုရု ဆရာတော်ကြီးကို သာသနာ ပိုင် အပ်သည်ဟု သီလဝိသောဓနီကျမ်း၌ အဆိုရှိသဖြင့် သာသနာပိုင် ဖြစ်ကြောင်း ထင်ရှားသည်။

**(၁၇) သာသနာပိုင် ထန်းတပင် ဆရာတော်။** ။ ထန်းတပင် ဆရာတော်ကား စေတုတ္တရာမြို့၌ ဖွားမြင်သည်။ ရဟန်းမည် ရှင်နန္ဒမာလာတည်း။ ရွှေဘိုမြို့ မြောက်လက် ရှေးက ထန်းတပင်ရွာ နောက် ထန်းတပင်မြို့တွင်သော မြို့၌ သီတင်းသုံးသည်။ တောင်ဘီလူး အရပ်၌ သီတင်းသုံးသော 'အနန္တဓဇ မဟာ ဓမ္မရာဇ ဂုရု' တံဆိပ်တော်ရ တောင် ဘီလူး ဆရာတော်ကြီးထံ၌ သုံးနှစ် ညဝါ သင်ကြားသည်။ တဖန် ထန်းတပင်မြို့သို့ ပြန်၍ အလောင်းမင်းတရားကြီး၏ ကျွန်ယုံတော် နန္ဒသီဟကျော်ထင် အမတ်ကြီး ဆောက်လုပ် အပ်သော ဗောဓိမည်သော ကျောင်းကို အလောင်းမင်း တရားကြီးနှင့်အတူ ရေစက်သွန်းချ လှူဒါန်းသဖြင့် သီတင်း သုံးတော်မူသည်။

နောက် စစ်ကိုင်းတောင်ရိုး ဘုံသုံးဆင့်ရှိ တိလောကဂုရု ကျောင်း၌ဒင်း၊ ပုညစေတီ အနောက်အရပ်၌ သတိုးမင်းလှ ရွှေတောင် ဘွဲ့ခံ မင်းသား မောင်ရွှေဝိုင်း ဆောက်လုပ်အပ်

သော ကျောင်း၌ရှင်း ငါးနှစ်သီတင်းသုံးသည်။ ထိုအခါက ပင် 'တိသာသနာ လင်္ကာရ' ပဌမ တံဆိပ်နှင့် 'ဓမ္မသာမိ ဇောတ မဟာ ဓမ္မရာဇ ဂုရု' ဒုတိယတံဆိပ်တော်တို့ကို ရရှိပြီး ဖြစ်သည်။

စဥ့်ကူးမင်း လက်ထက် အင်းဝမြို့တော်ရှေ့ မိုးထိကျောင်း ရာဟောင်းတွင် ဆောက်လုပ်သည့် ကျောင်းဦးရွှေပြာသာဒ်၊ ကျောင်းရံ တဆဲ့နှစ်ကျောင်း၊ ပိဋကတ်တိုက်နှင့် တကွ ငါးထပ် ဇေတဝန်ရွှေကျောင်းတော်ကို မဟာ မင်္ဂလာရွှေဘုံ သမိုက်၍ 'တိပိဋကာ လင်္ကာရ သာမိ မဟာ ဓမ္မရာဇာဓိ ရာဇဂုရု' ထန်းတပင် ဆရာတော်ကြီးအား လှူဒါန်းသည်။ ယင်းဆရာတော်ကြီးကား အတင်ဂိုဏ်းဝင် ဖြစ်၍ တိလောက ဂုရုကျောင်း၌ သီတင်းသုံးဘူးသောကြောင့် တိလောကဂုရု ဆရာတော်ဟု အမည်တွင်သည်။ ပဌမ ဗားကရာဆရာတော်၊ ကတိုး ဆရာတော်တို့သည် ထန်းတပင် ဆရာတော်ကြီးထံ ညဝါ သင်ဘူးကြသည်။ 'ရှင်သာပုံ လွန်သည့်နောက်မှ တိလောကဂုရု ဆရာတော်ကြီးကို သာသနာပိုင် အပ်သည်' ဟု သီလဝိသောဓနီကျမ်း၌ အဆိုရှိသဖြင့် သာသနာပိုင် ဖြစ်ကြောင်း ထင်ရှားသည်။ ဆင်ဖြူရှင် လက်ထက်၌ ဖြစ် သည်ဟု ယူဆသင့်သည်။

ထိုဆရာတော်ကြီး ပြုစုသော ကျမ်းတို့ကား ယမိုက်ဆယ် ကျမ်းအရကောက်၊ ပဋ္ဌာန်းအရကောက် (ယင်း နှစ်ကျမ်းမှာ ယခုအခါ ပဌမပြန် စာမေးပွဲ၌ ပြဋ္ဌာန်းထားသော ကျမ်းတို့ ဖြစ်သည်။)၊ ဘိက္ခုပါတိမောက်နိဿယ၊ ဘိက္ခုနီပါတိမောက် နိဿယ၊ သဒ္ဒါကြီးရှစ်စောင် နိဿယ စသည်တို့ ဖြစ်သည်။

(၁၈) **သာသနာပိုင် မန်လည်ဆရာတော်။** ။မန်လည် ဆရာတော်သား သက္ကရာဇ် ၁၀၇၆ ခု ဖွားမြင်သည်။ နံတော် တနင်္လာသား၊ ဇာတိ သစိုးမန်လည်ရွာ၊ လူမည် ဦးသာကြီး၊ သာမဏေမည် ရှင်ဂုဏ၊ သာမဏေ ခုနစ်ဝါ၊ သက်တော် နှစ်ဆယ်ကျော် ရဟန်းပြုသည်။ ရဟန်းမည် ဂုဏမဥ္ဇူသာ တည်း။ စဥ့်ကူးမင်း လက်ထက် အတင်အရုံ အဓိကရုဏ်း ငြိမ်းအေးသောအခါ 'ဂုဏမုနိန္ဒာဓိပတိ ပဝရသာမိ မဟာ ဓမ္မရာဇာဓိ ရာဇဂုရု' တံဆိပ်တော်နှင့် တကွ သာသနာပြု အပ်သဖြင့် သာသနာတော်ကို သုတ်သင်ပြုစုရသည်။

ဘိုးတော်မင်းတရားကြီးလက်ထက် ကန္နီမြို့အသုံးကံကျေး ခံရသော သမီးတော်ကြီးနှင့် ခမည်းတော် မင်းတရားကြီးတို့ ကိုးကွယ်ကြသည်။ ရွှေမြို့တော် အရှေ့တောင်ယွန်း၌ သမီးတော် ကန္နီမင်းသမီး ဆောက်လုပ်အပ်သော အမိုး လေးဆင့် ရှိ ရွှေကျောင်းတော်ကို ဘုံသာဝေယန် ကမ္ပည်းတပ်၍ ၁၁၅၃ ခုနှစ် နတ်တော်လဆန်း တဆဲ့နှစ်ရက် ဗုဒ္ဓဟူးနေ့တွင် မင်းကရောဇ် ကိုယ်တိုင် ရွှေကရားဖြင့် ရေစက်သွန်းချ၍ မန်လည် ဆရာတော်ကြီးအား တင်လှူပြီးလျှင် သာသနာပိုင်လည်း အပ်တော်မူသည်။

မန်လည် ဆရာတော်ကြီးကား သီလ ပညာ၌ လွန်သူမရှိ။ ဝိနယသင်္ဂဟ အဌကထာ တစောင်လုံး နှုတ်တက် ဆောင်သောကြောင့် ဝိနည်းသင်္ဂြိုဟ်ဟု ဆရာတို့ ဆိုစမှတ် ပြုကြသည်။ ဝိနည်းအဆုံးအဖြတ်၌ ဆရာနည်းရလှသည်။ စကား အရာ၌လည်း သူ ခွန်းပြန် မလျှောက်ရအောင် မိန့်ဆိုတတ် သည်။ ထိုမင်းတရားကြီး လက်ထက် မန်လည် ဆရာတော် ကြီးကို သမ္မုတိမှန်၏လော ဟု အတွင်းဝန်က မေးလျှောက် ရာ၊ ငါ့ဆရာလည်း မှန်၏၊ ငါလည်းမှန်၏ ဟုမိန့်ဆိုသောအခါ သည့်တိုင်းဖြစ်လျှင် နှလုံးတော်နှင့် မတိုက်မိ ရှိချိမ့်မည်၊ လျှောက်ပြန်ရာ မတိုက်မိသည်ကို တိုက်မိအောင် ငါမဆိုသာ၊ မတိုက်မိ၍ ထားသော မင်းဒဏ်ကိုလည်း စိုးရိမ်သင့်သည် မဟုတ်၊ ရေးသာရေးဟု မင်းမျက်နှာကို မလိုက်ပဲ မိန့်ဆို သည်။ တရံရောအခါ တပည့်ဖြစ်သော မှန်တောဆရာတော်၊ မဲထီး ဆရာတော်၊ ဆင်တဲ ဆရာတော်တို့ အချင်းချင်း နှလုံး မသာ ရှိကြသည်ကို ခေါ်၍ ငါအရွယ်ကြီးပြီ၊ မည်သူနှင့်မျှ ခိုက်ရန် မဖြစ်စဖူး ဟူ၍သာ မိန့်ဆိုသည်။ တပည့်သုံးပါး လည်း စိတ်နှလုံးချမ်းသာစွာ ရှိကြသည်။

မန်လည် ဆရာတော်ကြီးသည် သက်တော် ၉၃၊ ဝါတော် ၇၁၊ ၁၁၆၉ ခုနှစ် မိုးထိတိုက် ဘုံသာဝေယန် ကျောင်းတော် ကြီး၌ ပျံလွန်သည်။ လွန်သောအခါ သိက္ခာကို စွန့်၍ လွန် သော ဟူ၏။ တံဆိပ်တော်တို့ကား 'ဂုဏ မုနိန္ဒာဓိပတိ မဟာ ဓမ္မရာဇာဓိ ရာဇဂုရု'။ 'ဂုဏ မုနိန္ဒာဓိပတိ ပဝရသာမိ မဟာ ဓမ္မရာဇာဓိ ရာဇဂုရု' တို့ ဖြစ်သည်။

(၁၉) **သာသနာပိုင် မင်းအို ဆရာတော်။** ။မင်းအို ဆရာတော်ကား သက္ကရာဇ် ၁၀၇၀ ပြည့်တွင် ဖွားမြင်သည်။ နံတော် တနင်္လာသား၊ ဇာတိ ပင်တောကျေးကန်ရွာ၊ လူမည် ဦးအောင်ကျော်၊ သာမဏေမည် ရှင်ဂုဏ၊ သာမဏေ ခုနစ်ဝါ၊ သက်တော်စေ့တွင် ရဟန်းပြုသည်။ ရဟန်းမည် အရှင်ဂုဏာဘိ (ဂုဏသီရိ) တည်း။ စဥ့်ကူးမင်း လက်ထက် တွင် မင်္ဂလာရွှေဘုံကျောင်းတော်ကို အလှူခံရသည်။ 'ဂုဏာ ဘိ အနန္တဓဇ မဟာ ဓမ္မရာဇာဓိ ရာဇဂုရု' တံဆိပ်တော်ကို လည်း အလှူခံရသည်။

ထိုနောက် ဘိုးတော်မင်းတရားကြီးနှင့် နန်းမတော်မိဖုရား ခေါင်ကြီး နှစ်ပါးတို့က ကိုးကွယ်ကြသည်။ ရွှေမြို့တော်ကြီး အရှေ့မြောက်ယွန်း၌ မိဖုရားခေါင်ကြီး ဆောက်လုပ် အပ် သော အမိုးယွန်းဆက်ဘုံသုံးထပ်ရှိ ရွှေကျောင်းတော်ကြီးကို အောင်မြေဘုံကျော် ကမ္ပည်းမော်ကွန်း ထိုးမှတ်၍ ၁၁၄၉ ခု နှစ် ဝါဆိုလဆန်းခြောက်ရက်၊ ဗုဒ္ဓဟူးနေ့တွင် မင်းကရောဇ် ကိုယ်တိုင် ရွှေကရားဖြင့် ရေစက်သွန်းချ၍ မင်းအိုဆရာတော် ကြီးအား တင်လှူသည်။ သာသနာပိုင်လည်း အပ်တော် မူသည်။

ယင်းဆရာတော်ကြီးကား အရုံဂိုဏ်း တကျိပ်နှစ်ပါးအဝင်

အရှင်မောဂ္ဂလာန်ထေရ်၊ အရှင်ဓမ္မနန္ဒထေရ်တို့၏ အဆက်အနွယ် ဟု ဝံသဒီပနီ၌ ဆိုသည်။ သဒ္ဒိဝိဟာရိက တပည့်မဟုတ်၊ စာသင်တပည့်မျှသာ၊ စင်စစ်ကား ရေမြိန်အရှင်ကလျာဏဇ၏ သဒ္ဒိဝိဟာရိက တပည့်တည်း။ ယင်း ဆရာတော်ကြီး၏ အမည်ကို အရှင်ဂုဏသီရိ ဟူ၍လည်း ရေးမှတ်ကြသည်။ ကျမ်းရိုးအဆို သူ မတူတန်အောင် ကောင်းလှသည်။ ထိုဆရာတော်ကြီးမှ ဗားကရာဆရာတော် အရှင်ဓမ္မာဘိနန္ဒ၊ မောင်းထောင် ဆရာတော် အရှင်ဉာဏာဘိဝံသ၊ ကတိုး ဆရာတော် အရှင် ဓမ္မဓရ၊ ညောင်ကန်ဆရာတော် အရှင် သဒ္ဓမ္မရံသီ စသော တပည့်ကြီးများ ထွန်းကားသည်။ ယင်း တပည့်ကြီးတို့ကား ဉာဏတောဝိဘင်းပြန် ပုဂ္ဂိုလ်တို့ချည်းတည်း။ သက်တော် ၇၃၊ ဝါတော် ၆၃၊ ၁၁၅၃ ခုနှစ်တွင် မင်းအိုတိုက် အောင်မြေဘုံကျော် ကျောင်းတော်ကြီး၌ ပျံလွန်တော်မူသည်။ တံဆိပ်တော်တို့ကား 'ဂုဏာဘိ အနန္တဓဇ မဟာ ဓမ္မရာဇာဓိ ရာဇဂုရု'။ 'ဂုဏာဘိ အနန္တသီရိ မဟာ ဓမ္မရာဇာဓိ ရာဇဂုရု'။ 'ဂုဏာဘိလင်္ကာရ သဒ္ဓမ္မ မဟာဓမ္မ ရာဇာဓိ ရာဇဂုရု'။ 'ဂုဏမဉ္ဇူသာ အရိယာ လင်္ကာရ သဒ္ဓမ္မ ဓဇ မဟာ ဓမ္မရာဇာဓိ ရာဇဂုရု'တို့ ဖြစ်ကြသည်။

(၂၀) **သာသနာပိုင် ဆုံတား ဆရာတော်။** ။ဆုံတား ဆရာတော်ကား သက္ကရာဇ် ၁၀၈၀ ပြည့်တွင် ဖွားမြင်သည်။ နံတော် စနေသား၊ ဇာတိ အနောက်တိုက် ပေါက်မြင်ရွာ (ဆုံတားရွာလည်း ဟူ၏)။ လူမည် ဦးစံဘလူး၊ သာမဏေမည် ရှင်နန္ဒ၊ သာမဏေဝါ ငါးဝါ၊ သက်တော် နှစ်ဆယ်ပြည့်တွင် ရဟန်းပြုသည်။ရဟန်းမည် ရှင်နန္ဒမာလာ (နန္ဒာဘိဓဇလည်း ဟူ၏)။ ရေမြိန်ဆရာတော် အရှင်ကလျာဏဇထံ ကျမ်းဂန်အရပ်ရပ်ကို သင်ကြားတတ်မြောက်သည်။ ဗန့်ကျီတိုက်နယ်မှ စ၍ ဆင်ဖြူကျွန်း၊ နောက် စလင်းမြို့သို့ ရောက်သည်။ယင်းမြို့ ထက်ဝန်းကျင်၌ နွားမွေးခြင်း၊လှည်းစီးခြင်း၊ ထီးဆောင်းခြင်း အမှုတို့ကို ပြုကျင့်နေသော ရဟန်းတို့ကို ဝိနည်းတော်နှင့်အညီ ဆုံးမက်မြစ်၍ သာသနာကို စောင့်ရှောက်သည်။

ဆုံတား ဆရာတော်ကြီးသည် တုံနွယ်ရဟန်းတို့၏ အတင်ဝါဒ မဟုတ်ကြောင်းကိုပြသ၍ ကျမ်းဂန်ပြုစုသည်။ ထိုကျမ်းကို တိလောကဂုရု ထန်းတပင်ဆရာတော်ကြီးက စဉ့်ကူးမင်းကို ပြသသည်။ စဉ့်ကူးမင်းလည်း ထိုကျမ်းကို ကြည့်ရှုဆင်ခြင်ရာ ဉာဏ်ပညာရှိသောမင်း ဖြစ်သည့်အလျောက် ဝိနည်းတရားတော်အား လျောက်ပတ်သည်ကို သိသဖြင့် ဆုံတား ဆရာတော်ကြီးကို ပင့်၍ မြို့တော်သို့ ရောက်သော အခါ မင်းဧကရာဇ်လည်း ဆရာတော်ကြီးထံ ဝိနည်းတရားတော်ကို သင်ကြားပြီးလျှင် အတင်ဂိုဏ်း ဆရာတော်တို့ကို စည်းဝေးစေ၍ အဆုံးအဖြတ်ကို ပြုစေသည်။ ထိုအခါ အတင်ဂိုဏ်း ဆရာတော်တို့ ရှုံးပါပြီဟု ဝန်ချရသည်။ကျောင်းရံ ကျောင်းဦး ပြာသာဒ် နှစ်ဆောင်နှင့်တကွ လေးထပ် ဇေတဝန်ရွှေကျောင်းကို ဘုံကျော်ဝေယန် သမိုက်၍ ဆုံတားဆရာတော်ကြီးအား လှူဒါန်းသည်။

ထိုနောက် ဘိုးတော် မင်းတရားကြီးနှင့် သားတော် အိမ်ရှေ့မင်း နှစ်ပါးတို့ ကိုးကွယ်သည်။ အိမ်ရှေ့မင်း မိဖုရား ကျောင်းတော်ကို မင်္ဂလာဝေယန် ကမ္မည်းတပ်၍ ဆုံတား ဆရာတော်ကြီးအား တင်လှူသည်။ သာသနာပိုင်လည်း အပ်တော်မူသည်။

ထိုဆရာတော်ကြီးကား ပါဠိအဋ္ဌကထာ ဋီကာကျမ်းဂန် နိုင်နင်း ကျနလှ၏။ စုဒ်-စောဒနာ အာဘော်-ကျမ်းထွက် ကျမ်းတက် ကျမ်းရိုး နိုင်နင်း၏။ ပစ္စည်းဥစ္စာ၌ ဤကား ငါ့ဘို့၊ ဤကား သူတို့ဟု ဝေဖန်ခြင်းမရှိ၊ ရသမျှပစ္စည်းဥစ္စာ သူတပါးဘို့ချည်းသာ ရည်မှတ်၏။ ပစ္စည်းဥစ္စာ၌ တပ်မက်တော်မမူချေ။ ရေမြိန်ဆရာတော် အရှင်ကလျာဏဇ၏ သဒ္ဒိဝိဟာရိက တပည့်တည်း။ မင်းအိုဆရာတော်ကြီးနှင့် ဆရာတူတပည့်ဖြစ်၏။ ကျမ်းဂန်အများကို ပြုစုတော်မူ၏။ (ဆုံတားဆရာတော် — ရှု။) တံဆိပ်တော်တို့ကား 'နရိန္ဒာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု'။ 'နရိန္ဒာဘိ သီရိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု'။ 'တိပိဋကာလင်္ကာရ သဒ္ဓမ္မသာမိ မဟာဓမ္မရာဇာဓိ ရာဇဂုရု' တို့ဖြစ်ကြသည်။

(၂၁) **သာသနာပိုင် မင်းရွာ ဆရာတော်။** ။မင်းရွာ ဆရာတော်ကား သက္ကရာဇ် ၁၀၈၅ ခုတွင် ဖွားမြင်သည်။ နံတော်အင်္ဂါသား၊ ဇာတိ မတ္တရာမြို့ကျေး ဝါးရင်းတုတ်ရွာ၊ လူမည်ဦးစံသာ၊သာမဏေမည် ရှင်ဇာဂရ၊သာမဏေခြောက်ဝါ၊သက်တော်စေ့တွင် ရဟန်းပြုသည်။ရဟန်းမည် ရှင်ဇာဂရတည်း။ စဉ့်ကူးမင်းလက်ထက် ငါးဆပ်ကြီးဘုရား တောင်ဖက်၌ နှမတော် ကန္နီမြို့စား ဆောက်လုပ်အပ်သော လေးထပ် ဇေတဝန်ရွှေကျောင်းကို ရတနာရွှေဘုံ သမိုက်ပြီးလျှင် မင်းရွာ ဆရာတော်အား တင်လှူသည်။ 'ဇမ္ဗူဒီပသီရိ အနန္တဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု' တံဆိပ်တော်ကိုလည်း လှူသည်။

ဘိုးတော်မင်းတရားကြီး လက်ထက် သားတော်အိမ်ရှေ့မင်း၏ မယ်တော် အလယ်နန်းမတော် မိဖုရား ဆောက်လုပ်အပ်သောကျောင်းရံတဆယ်နှင့် အမိုးသုံးထပ်ရှိ ရွှေကျောင်းတော်ကို မင်္ဂလာစံလွှတ် ကမ္မည်းမော်ကွန်း ထိုးမှတ်၍ ၁၁၄၉ ခုနှစ် တပေါင်းလဆန်းခြောက်ရက် တနင်္ဂလာနေ့တွင် မင်းဧကရာဇ်ကိုယ်တိုင် ရွှေကရားဖြင့် ရေစက်သွန်းချ၍ မင်းရွာ ဆရာတော်ကြီးအား တင်လှူသည်။ 'ဉာဏဇမ္ဗူဒီပအနန္တဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု' တံဆိပ်တော်ကို လှူဒါန်းသည်။ သာသနာပိုင်လည်း အပ်တော်မူသည်။

ထိုဆရာတော်ကြီးကား ကျမ်းဂန် ဝါစုဂ္ဂတ အရအမိများသည်။ ဆွမ်းဘုဉ်းပေးရန် ကပ်လာသော ဟင်းလျာ

အများတွင် မျက်စိမှိတ်၍ နှိုက်မိသော ဟင်းလျာခွက်ကို သာ တခွက်တည်း မျက်စိဖွင့်၍ ဘုဉ်းပေးသည်။ အခြား ဟင်းလျာခွက်ကို ဘုဉ်းပေးတော်မမူ။ သူတပါးအား ကဲ့ရဲ့ သောစကားကို ဆိုမည်ထား၍ ကဲ့ရဲ့စကားပြောလာသူတို့ အသံမျှကိုလည်း လည်မည်ပိတ်ချေ။ သို့စဉ် သိမ်းဆည်းတော် မူ၏။ မင်းဆရာဖြစ်လျက် ဝါတော်ငါးဆယ်ကျော်အောင် ဆွမ်းခံဝတ်ကို ဖျက်တော်မမူ။ နေပူမိုးရွာ ဖိနပ် မစီး၊ ထီး မဆောင်း၊ ပစ္စည်း၌လည်း သပိတ်တလုံး၊ သင်္ကန်းသုံးထည် သာ ထား၍ ကြွင်းသမျှ အကုန်စွန့်သည်။ ကျော်အောင် စံထား ဆရာတော်ကြီး၏ တပည့်ဖြစ်သည်။ သက်တော် ၈၁၊ ဝါတော် ၆၁၊ ၁၁၆၆ ခုနှစ်တွင် မင်းရွာကျောင်းတိုက် အတွင်း အနောက်မြောက်ထောင့် လည်ပေါ်ကျောင်း၌ ပျံလွန်တော်မူသည်။ ပျံလွန်အံ့သောအခါ အယုတ်သဖြင့် ဒေသနာကံမျှ မပြု၊ မုန်တောဆရာတော် ဟောအပ်သော သတိပဋ္ဌာနသုတ်ကို နာလျက် ပျံလွန်တော်မူသည်။

(၂၂) **သာသနာပိုင် ပဌမမောင်းထောင်ဆရာတော်။** ။ ပဌမမောင်းထောင်ဆရာတော်ကား သက္ကရာဇ် ၁၁၁၅ ခုတွင် ဖွားမြင်သည်။ နံတော်အင်္ဂါသား၊ ဇာတိ အလုံမြို့ကျေး မောင်းထောင်ရွာ၊ အဖ နတ်ရှင်ရက္ခဘွဲ့ခံ မောင်စံအူ၊ အမိ ရှင်ခွေး၊ လူမည် ဦးမြတ်နေ၊ သာမဏေမည် ရှင်ဥာဏ၊ ရဟန်းမည် ရှင်ဥာဏာဘိဝံသဖြစ်သည်။

ဘိုးတော်မင်းတရားကြီး လက်ထက် မင်းအိုဆရာတော်၊ မန်လည် ဆရာတော်၊ ဆုံတား ဆရာတော်၊ မင်းရွာဆရာ တော် ဤဆရာတော်ကြီး လေးပါးကို သာသနာပြု သာသ နာပိုင် အပ်နှင်းပြီးသောအခါ ယင်းဆရာတော်ကြီးလေးပါး နှင့်တွဲဖက်၍ သာသနာပြုရန် ဆရာတော်ရှစ်ပါးကို ခန့်အပ်ရာ ၌ မောင်းထောင်ဆရာတော် အပါအဝင် ဖြစ်သည်။ ရှစ်ပါး တို့ကား (၁) ရွှေတောင် ဆရာတော်၊ (၂) ပဌမ ဗားကရာ ဆရာတော်၊ (၃) ကတိုးဆရာတော်၊ (၄) မဲထီးဆရာတော်၊ (၅) မုန်တောဆရာတော်၊ (၆) စလင်းဆရာတော်၊ (၇) ဆင်တဲ ဆရာတော်၊ (၈) မောင်းထောင် ဆရာတော်တို့ ဖြစ်သည်။

၁၁၅၀ ပြည့်သို့ ရောက်သောအခါ ဘိုးတော်မင်းတရား ကြီးသည် မောင်းထောင် ဆရာတော် တပါးတည်းကိုသာ သာသနာပြုသာသနာပိုင်အပ်တော်မူသည်။ (မောင်းထောင် ဆရာတော်များ — ရှု။)

(၂၃) **သာသနာပိုင် စလင်းဆရာတော်။** ။စလင်း ဆရာတော်ကား သက္ကရာဇ် ၁၁၂၅ ခု တော်သလင်းလဆန်း ရှစ်ရက်၊ ကြာသပတေးနေ့ နေဝန်းပေါ် သည်နှင့် တပြိုင်နက် ဖွားမြင်သည်။ ဇာတိ စကုမြို့အဝင် ကန့်ကလာရွာ၊ အဖ ဦးညို သီလ၊ အမိ ရှင်မိ၊ လူမည် ဦးချစ်လောက် ဖြစ်သည်။ ဦးချစ်လောက် တွင်ကြောင်းကား မွေးဖွား၍ ရေချိုးပြီး ဆန်ကောတွင် သိပ်ထားရာ ချက်ပေါ်၌ တိရစ္ဆာန်လောက် ကောင်များ တက်နေသည်ကို အစွဲပြု၍ ချက်လောက် တွင် သည်။ နောင် ချက်လောက်မှ ချစ်လောက်ဖြစ်လာသည်။ သက်တော် ရှစ်နှစ်တွင် ကြက်သွန်ခင်း ဆရာတော်ကြီး၏ တပည့် ပဌမဆရာတော် အရှင်မေဓိယ ထံတွင် ပညာသင် ကြားသည်။ တဆဲ့ခြောက်နှစ်တွင် သာမဏေပြုသည်။ သာမဏေမည် ရှင်ပညာ၊ သာမဏေ ငါးဝါ၊ သက်တော်စေ့ သဖြင့် ၁၁၄၆ ခုတွင် အရှင်မေဓိယကိုပင် ဥပဇ္ဈာယ်ပြု၍ ရဟန်းဖြစ်သည်။ ရဟန်းမည် ရှင်ပညာသီဟတည်း။ ဆရာ တော် အရှင်မေဓိယထံမှာပင် ပါဠိ၊ အဋ္ဌကထာ၊ ဋီကာတို့ကို သင်ကြားပို့ချသည်။ နောက် ပန်းလှသွား ဂိုဏ်းအုပ်ဆရာတော် အရှင်ဂုဏာဝန္တ ထံ၌လည်း ပါဠိ၊ အဋ္ဌကထာ၊ ဋီကာတို့ကို သင်ကြားချပို့သည်။

ရဟန်း ရှစ်ဝါတွင် စလင်းမြို့ သူကြီးသမက် ငပန်းညိုက ကွန်းသုံးစဉ် ဘုံလေးဆင့်ရှိ ကျောင်းကြီးကို ဆောက်လုပ် လှူဒါန်းသည်။ ကိုးဝါတွင် အမရပူရမြို့တော် သုဓမ္မာဇရပ် မှာ ဥဘတောဝိဘင်း ပြန်ဆိုသဖြင့် မောင်းထောင် သာသ နာပိုင်က နိဿယည်း တိုက်အုပ် အမိန့်တော်စာချွန် ပေးအပ် ခြင်းကို ခံရသည်။ နောက် စလင်းမြို့ သူကြီးသား ငချင်းက ကွန်းသုံးစဉ် ဘုံလေးဆင့်ရှိ ကျောင်းကြီးတဆောင်၊ ဝင်းမ နား ရွာသူကြီး အမိ မိဘွယ်က ကွန်းသုံးစဉ် ဘုံလေးဆင့်ရှိ ကျောင်းကြီးတဆောင်၊ ဆင်ဖြူကျွန်းနေ လှေစီးဝဇက ကွန်း သုံးစဉ် ဘုံလေးဆင့်ရှိ ကျောင်းကြီးတဆောင်၊ ကျောင်းကြီး လေးဆောင်တို့ကိုဆောက်လုပ်လှူဒါန်းကြသည်။ဆရာတော် သည် ထိုကျောင်းကြီးတို့၌ အလှည့်အလည် သီတင်းသုံး သည်။ ၁၁၇၀ ခုနှစ်တွင် ဘိုးတော်မင်းတရားကြီးက ပင့်ဖိတ် ကာ ရဟန်းဒါယကာခံ၍ ရဟန်းအဖြစ် ထပ်၍ ချီးမြှောက် ခြင်းကို ခံရသည်။

ဘကြီးတော် လက်ထက် ရောက်သောအခါ အမရပူရမြို့ တော်သို့ပင့်၍ ဘိုးတော်မင်းတရားကြီး ကောင်းမှု အသော ကာရာမတိုက်၊ရတနာဘုံကျော် ကျောင်းကြီးကို လှူဒါန်း၍ ကျောင်းတိုက် အတွင်း နှစ်ထပ်လည်ပေါ် ဝါဆိုကျောင်း ဆောက်လုပ်လှူဒါန်းကိုးကွယ်သည်။ ၁၁၈၂ ခုနှစ် တန်ခူးလ ဆန်း တရက် စနေနေ့ နံနက်တွင် သုဓမ္မာစရပ်၌ မင်းညီ မင်းသား သင်္ဃေ သူကြွယ် ပရိသတ် အစုံအညီ၌ 'မုနိန္ဒာဘိ သီရိ သဒ္ဓမ္မဇ ဓမ္မရာဇာဓိ ရာဇဂုရု' ဘွဲ့တံဆိပ်တော်ကို လှူဒါန်းတော်မူပြီးလျှင် သာသနာပြု သာသနာပိုင် အပ်တော်မူသည်။

အင်းဝမြို့သို့ ရောက်သောအခါ မြို့တော်၏ အနောက် တောင်ယွန်း ရွှေစည်းခုံဘုရားအနီး တံတိုင်းမဟာရံမုတ်လေး မျက်နှာနှင့်တကွ ဝါဆိုကျောင်း၌ သီတင်းသုံးသည်။ ၁၁၉၀ ပြည့် တပေါင်းလဆန်း တဆဲ့သုံးရက်နေ့တွင် ကျောင်းဦး

ပြာသာဒ် ဘုံခုနစ်ဆင့် ကျောင်းမ အမိုးစမြင်ပါ ဘုံလေးဆင့် ဥကင်ရာဇပလ္လင်တည်၊ ဝဲ ယာ ထီးဖြူစိုက်၊ နာရဏီရွှေဗိမ်နံးချလျက် ဖလ်မှန်တို့ဖြင့် ခြယ်လှယ်အပ်သော စံကျောင်းတော်ကို မဟာအောင်မြေဘုံသာ ကမ္ပည်းတပ်လျက် သာသနာပိုင် ဆရာတော်ကြီးကို ထီးဖြူအုပ်မိုးပြီးလျှင် မင်းကရာဇ်ကိုယ်တိုင် ရေစက်သွန်းချလှူဒါန်းသည်။ ‘မုနိန္ဒာဘိဝံသ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိ ရာဇဂုရု’ ဘွဲ့တံဆိပ်တော်ကိုလည်း လှူဒါန်းသည်။ ၁၁၉၇ ခုနှစ် အင်းဝမြို့တော်အတွင်း အနောက် တောင်ထောင့်ရှိ ဘိုးတော် မင်းတရားကြီး ကောင်းမှု ဘုံကျော်ကျောင်းကြီးကိုလည်း အသစ် ကောင်းမွန်ခိုင်ခံ့အောင် ပြင်ဆင်၍ လှူဒါန်းတော်မူသည်။

ရွှေဘိုမင်းလက်ထက်၌လည်း မနိမ့်ကျစေရ။နောင်တော်မင်း ကိုးကွယ်မြဲအတိုင်း ကိုးကွယ်၍ ‘မုနိန္ဒာဘိဝံသ ဓမ္မသေနာပတိသီရိ သဒ္ဓမ္မပါလ မဟာဓမ္မရာဇာဓိ ရာဇဂုရု’ဘွဲ့တံဆိပ်ကို လှူဒါန်းသည်။ ရတနာဘုံကျော် ကျောင်းကြီးကိုလည်း ထပ်မံလှူဒါန်းပြီးလျှင် ကျောင်းတိုက်ကြီးအတွင်း ဝါဆိုကျောင်း အသစ် ဆောက်လုပ် လှူဒါန်းပြန်သည်။ ယင်းကျောင်း၌ပင် သက်တော် ၇၈၊ ဝါတော် ၅၉၊ ၁၂၀၂ ခုနှစ် တော်သလင်းလဆုပ် ရှစ်ရက် တနင်းလာနေ့ ပျံလွန်တော်မူသည်။ ပြုစုသောကျမ်းတို့ကား ရာဇိန္ဒ ရာဇပုည ဒီပနီ၊ အဘိဓမ္မာဝတာရ အဋ္ဌကထာနိဿယတို့ ဖြစ်သည်။

**(၂၄) သာသနာပိုင် သဲအင်းဆရာတော်။** ။သဲအင်းဆရာတော်ကား သက္ကရာဇ် ၁၁၂၅ ခု နတ်တော် လဆန်း ခုနစ်ရက် သောကြာနေ့ ဖွားမြင်သည်။ ဇာတိ ပုခန်းကြီးမြို့ ကျေး သဲအင်းရွာ၊ အဖ မောင်အောင်စံ၊ အမိ ရှင်ပုံ၊ လူမည် ဦးကြောင်၊ ရွှေဘိုမင်း၏ဆရာ ဖြစ်သည်။

သဲအင်းဆရာတော်သည် ဆင်ဖြူရှင်လက်ထက် သူငယ်အဖြစ်ကပင် အစ်ကိုရင်းအရှင်စန္ဒမည်သော မထေရ်နှင့်အတူ ရတနာပူရ အင်းဝမြို့တော်သို့ ရောက်၍ စရစ်ဆရာတော်၊ မိုးထိတိုက် ထန်းတပင် ဆရာတော်တို့ထံ မှီဝဲဆည်းကပ်ကာ စာပေ သင်ကြားလျက် သာမဏေအဖြစ်သို့ ရောက်သည်။ သာမဏေမည် ရှင်သူရိယတည်း။ နောက် ဗားကရာ ဆရာတော်ကြီးထံ မှီဝဲဆည်းကပ်၍ စာပေသင်ကြားသည်။ အမရပူရမြို့တော်သို့ ရောက်သည့်ကာလ သက်တော်နှစ်ဆဲ့ငါးနှစ်တွင် ဗားကရာ ဆရာတော်ကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်သည်။ ရဟန်းမည် ရှင်သူရိယဝံသ ဖြစ်သည်။

၁၁၆၁ ခုနှစ်တွင် ဇာတိဖြစ်သောသဲအင်းရွာ၌ ကျောင်းကန်တိုက်တာတည်လျက် စာပေပို့ချကာနေသည်။ဘိုးတော်မင်းတရားကြီး နတ်ရွာစံ၍ မြေးတော်အိမ်ရှေ့မင်း အထွတ်အမြတ်သို့ ရောက်ပြီး ၁၁၈၁ ခုနှစ်တွင် မြို့တော်သို့ပင့်ဆောင်၍ ရောက်လျှင် ညီတော်သာယာဝတီမင်းက မြို့တော်မြောက်မျက်နှာ ရွှေစေတီကျောင်းတိုက် အတွင်း ဝါဆိုကျောင်း ဆောက်၍ တင်လှူကိုးကွယ်သည်။ ၁၁၈၂ ခုနှစ် ဝါဆိုလဆန်းတဆဲ့ငါးရက်နေ့တွင် ‘သဒ္ဓမ္မဝံသာဘိ သီရိဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု’ ဘွဲ့တံဆိပ်တော်ကို လှူဒါန်းသည်။

အင်းဝမြို့တော်သို့ ရောက်သော အခါ၌လည်း မြို့တော်အနောက် လောကသယမ္ဘူဘုရား အရှေ့တွင် သာယာဝတီမင်း ဆောက်လုပ်လှူဒါန်းအပ်သော သဲအင်းကျောင်းတိုက်၌သီတင်းသုံးသည်။ ၁၁၉၉ ခုနှစ် သာယာဝတီမင်း အထွတ်အမြတ်သို့ ရောက်သောအခါ ထိုနှစ်နယုန်လဆန်းငါးရက်နေ့တွင် ရွှေနန်းတော် အနောက်တောင်ထောင့် မာရ်အောင်ရတနာဘုရားအတွင်း သုဓမ္မာစရပ်၌ ဆရာတော် သံဃာတော်၊ ဝန်ကြီး ဝန်ထောက်၊ မှူးမတ်၊ ရဟန်းပရိသတ် လူပရိသတ် အစုံအညီတွင် သဲအင်းဆရာတော်ကြီးအား သာသနာပြု သာသနာပိုင် အပ်နှင်းတော်မူသည်။

ထိုနှစ် နယုန် လဆန်း တဆဲ့သုံးရက် ဗုဒ္ဓဟူးနေ့တွင် ပရိယတ်၊ ပဋိပတ် အရာ၌ သတ္တိဗျတ္တိနှင့် ပြည့်စုံသော ပိဋကတ် စာမ၊ စာကြည့်၊ စာတည်း ဆရာတော် တကျိပ်နှစ်ပါးနှင့်တကွ သဲအင်းဆရာတော်ကြီးကို ဇေယျာပုရ စစ်ကိုင်းမြို့ စံနန်းတော်သို့ ပင့်ပြီးလျှင် သဲအင်းဆရာတော်ကြီးအား ‘သူရိယဝံသာဘိ သီရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာ ဓမ္မရာဇာဓိ ရာဇဂုရု’ ဘွဲ့တံဆိပ်တော်ကို လှူဒါန်းသည်။ နောက်ပါဆရာတော် တကျိပ်နှစ်ပါးတို့အားလည်း အသီးအသီး ဘွဲ့တံဆိပ်တော်များကို လှူဒါန်းတော်မူသည်။

နောက် အမရပူရမြို့တော်သို့ ရောက်လျှင် မြို့တော်အရှေ့မြောက်ယွန်း ဘွားတော် အရှင်မိဖုရားခေါင်ကြီး ကုသိုလ်တော် မင်းအိုတိုက် အောင်မြေဘုံကျော် ကျောင်းကြီးကို သဲအင်းဆရာတော်ကြီးအား လှူဒါန်းပြီးလျှင် ယင်း တိုက်အတွင်း အနောက်မြောက် ထောင့်၌ ဝါဆိုကျောင်း ဆောက်၍ လှူဒါန်းကိုးကွယ်သည်။ ထိုဝါဆိုကျောင်းမှာပင် သက်တော် ၇၆၊ ဝါတော် ၅၁၊ ၁၂၀၁ ခုနှစ်၊ သီတင်းကျွတ် လဆုတ် တဆဲ့သုံးရက် ညဉ့် တချက်တီးကျော်နှစ်နာရီအချိန်တွင် ပျံလွန်တော်မူသည်။

ထိုဆရာတော်ကြီး၌ ပရိယတ် ပဋိပတ် သတ္တိဗျတ္တိ နှင့် ပြည့်စုံသော တပည့်များ ထွန်းကားခဲ့ရာ အကျော်စောဆုံး အထင်ရှားဆုံး တပည့်တို့ကား သာသနာပိုင် မောင်းထောင်ဆရာတော် အရှင်ဉေယျဓမ္မ၊ ဗားကရာ သာသနာပိုင်ဆရာတော် အရှင်ပညာဇောတ၊ ခင်မကန် ဆရာတော် အရှင် မဏိဇောတတို့ဖြစ်သည်။ ပြုစုသော ကျမ်းတို့ကား ယမိုက် ဆယ်ကျမ်း အရကောက်၊ ပဋ္ဌာန်းအရကောက်၊ ဝိထိလက်ရိုး၊ ပဋ္ဌာန်းသုံးချက်စု-ပစ္စည်းပြိုင်၊ ရာသီစုစသော ကျမ်းတို့ဖြစ်သည်။

**(၂၅)သာသနာပိုင် ဒုတိယမောင်းထောင်ဆရာတော်။** ။ဒုတိယ မောင်းထောင် ဆရာတော်ကား နတ်ရဲတောင်ရွာ

ဇာတိဖြစ်သောကြောင့် နတ်ရဲတောင် သာသနာပိုင် ဟူ၍ ၎င်း၊ မောင်းထောင်သာသနာပိုင်ဟူ၍၎င်း၊ တောင်တော် သာသနာပိုင်ဟူ၍၎င်း ထင်ရှားသည်။ ရွှေဘိုမင်းလက်ထက် သဲအင်းသာသနာပိုင် ဆရာတော်ကြီး ပျံလွန်တော်မူလျှင် ၁၂၀၁ ခုနှစ် တန်ဆောင်မုန်းလဆန်း တဆဲ့ ငါးရက်နေ့ ဆင်ကြိုးရွှေဂူဘုရား အရံတော်အတွင်း သုဓမ္မာစရပ်၌ ဆရာတော် သံဃာတော်၊ မင်းညီမင်းသား၊ ဝန်ကြီး ဝန်ထောက်၊ မှူးမတ်၊ သင်္ဘေး သူကြွယ်၊ရဟန်းပရိသတ် လူပရိတ်သတ်အစုံ အညီတွင် မောင်းထောင် ဆရာတော်အား ပဥ္စမအကြိမ် သာသနာပြု သာသနာပိုင် အပ်နှင်းသည်။

မင်းတုန်းမင်းတရားကြီးလက်ထက် ၁၂၁၅ ခုနှစ် ကဆုန် လ အတွင်း ရတနာသိခ်မြို့တော် ရွှေတန်ဆာ ဘုရားရှေ့ သုဓမ္မာစရပ်၌ ပွဲသဘင် ခင်းကျင်းပြီးလျှင် မောင်းထောင် ဆရာတော်အား သာသနာပြု သာသနာပိုင် အပ်တော်မူ သည်။ ထိုဆရာတော်ကား သာသနာပိုင် နှစ်ကြိမ်ဖြစ်သော ကြောင့် အလွန် ထူးခြားသော ဆရာတော် ဖြစ်သည်။ (မောင်းထောင်ဆရာတော်များ — ရှု။)

**(၂၆) သာသနာပိုင် ဒုတိယ ဗားကရာ ဆရာတော်။ ။** ဒုတိယ ဗားကရာ ဆရာတော်ကား သက္ကရာဇ် ၁၁၄၇ ခု ကဆုန်လဆုတ် တဆဲ့သုံးရက် ကြာသပတေးနေ့ ဖွားမြင် သည်။ အဖ မောင်ကြင်၊ အမိ ရှင်ကြင်၊ လူမည် ဦးအင် ဖြစ်သည်။ ပုဂံမင်း လက်ဆက်တွင် သာသနာပြု သာသနာ ပိုင် ဖြစ်တော်မူသည်။ သဲအင်း သာသနာပိုင် ဆရာတော် ကြီး၏ သဒ္ဒိဝိဟာရိက တပည့်တည်း။ ထိုဆရာတော်၌ တပည့်များစွာ ထွန်းကားခဲ့ရာ ထင်ရှား ကျော်စောသော တပည့်တို့ကား ဗန်းမော်ဆရာတော် အရှင်ပဏ္ဍိတ၊ ငါးခုံ ဆရာတော် အရှင် ဒီပါ လင်္ကာရ၊ ဒွါရ ဂိုဏ်းကြီး၏ ဦးစီး နာယက အုတ်ဖိုဆရာတော် အရှင်ဥက္ကံဝံသမာလာ၊ ဘုရား ကြီး ဆရာတော် အရှင်ဇာဂရတို့ ဖြစ်သည်။ (ဗားကရာ ဆရာတော်များ — ရှု။)

**(၂၇) သာသနာပိုင် တောင်တော် ဆရာတော်။ ။** တောင်တော် ဆရာတော်ကား သက္ကရာဇ် ၁၁ဂ၀ ပြည့် နှစ်ခန့်တွင် ဖွားမြင်သည်။ ဇာတိ မန္တလေး တောင်၏ အရှေ့မြောက်ယွန်း ခုနစ်မိုင်ခန့်၌ သခင်မတောင် ဟူ၍၎င်း၊ မယ်ဥတောင် ဟူ၍၎င်း၊ မရွှေဥတောင် ဟူ၍၎င်း ခေါ်အပ် သော တောင်၏ တောင်ဖက်ခြေရင်းရှိ ရှော်ဖူကုန်းရွာဖြစ် သည်။ သက်တော်စေ့ ရဟန်းပြုသည်။ ရဟန်းမည် ရှင် မာလာဘည်း။ မန္တလေးမြို့သို့ ရောက်သောအခါ မင်းတုန်း မင်းတရားကြီး၏ ကောင်းမှု မဟာဝိသုတာရာမ တိုက်တော် ခေါ် အရှေ့တိုက်တော်၌ ဒုတိယ မောင်းထောင် သာသနာ ပိုင် အရှင်ဥေယျဓမ္မထံ ပိဋကတ် ကျမ်းဂန်များကို သင် ကြားသည်။

၁၂၃၆ ခုနှစ်တွင် မင်းတုန်းမင်းတရားကြီးသည် သီပေါ မင်းသားနှင့်အတူ သားတော် လေးပါးတို့ကို ရှင်သာ မဏေပြုပြီးလျှင် မာလာလင်္ကာရ သီရိဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု တောင်တော် ဆရာတော်ထံ အပ်နှံ၍ နန်းတော် အတွင်း လွှတ်တော်ရှေ့တွင် ကျောင်းတော် ဆောက်လုပ် ကာ တောင်တော် ဆရာတော်ကို သီတင်း သုံးစေလျက် မင်းသားတို့ကို ပညာသင်ကြားစေသည်။ သီပေါမင်း အ ထွတ်အမြတ်သို့ ရောက်သောအခါ ယင်း ကျောင်းတော်ကို အသစ်ပြုပြင် ဆောက်လုပ်၍ မှန်စီ ရွှေချထားသဖြင့် နန်း တွင်း မှန်ကျောင်းဟု ခေါ်ကြသည်။ တောင်တော် ဆရာ တော်၏ ဘွဲ့တံဆိပ်မှာလည်း မင်းတုန်း မင်းတရားကြီး လှူ ဒါန်းသော တံဆိပ်ဟု ယူဆသည်။

၁၂၄၇ ခုနှစ် တပို့တွဲလတွင် သာသနာပိုင် ဒုတိယ မောင်းထောင် ဆရာတော် ပျံလွန်ရာ နောက်ထပ် သာသနာ ပိုင် မတင်မြှောက်တော့ပဲ သာသနာရေး သာသနာမှုကို သုဓမ္မာအဖွဲ့က စီမံအုပ်ချုပ်သည်။

၁၂၄၀ ပြည့်နှစ် သီတင်းကျွတ် လဆန်း ခုနစ်ရက်နေ့ မင်းတုန်းမင်းတရားကြီး နတ်ရွာ စံပြီးနောက် သီပေါမင်း နန်းတက်သောအခါ မင်းတုန်းမင်း လက်ဆက်က ဖွဲ့စည်း ထားသော သုဓမ္မာ ဆရာတော် ရှစ်ပါးအနက် ကျန်ရှိသော လေးပါးတွင် နောက်ထပ် ဆရာတော် ရှစ်ပါး ထည့်သွင်း သဖြင့် သုဓမ္မာဆရာတော် တကျိပ်နှစ်ပါး ဖြစ်လာရာ တောင်တော် ဆရာတော်လည်း အပါအဝင် ဖြစ်သည်။

၁၂၄၄ ခုနှစ် တပေါင်းလတွင် သီပေါမင်းသည် သုဓမ္မာ စရပ်၌ ဆရာတော် သံဃာတော် မင်းညီမင်းသား မှူးမတ် ပရိသတ် အစုံအညီ၌ တောင်တော် ဆရာတော်အား 'မာလာ လင်္ကာရ သာသနဓဇ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိ ရာဇဂုရု' ဘွဲ့တံဆိပ်တော်ကို ကပ်လှူ၍ အမိန့်တော် ပြန် တမ်းကို ဖတ်ကြားစေပြီးလျှင် သာသနာပြု သာသနာပိုင် အပ်နှင်းတော်မူသည်။

၁၂၄၆ ခုနှစ် ဝါခေါင်လတွင် ဆရာတော် သံဃာတော် ရှစ်ဆယ်တို့အား ရာဇဂုရုဘွဲ့တံဆိပ်ကို ငါးမျိုး သတ်မှတ်ပိုင်း ခြား၍ ကပ်လှူသောအခါ သာသနာပိုင် တောင်တော် ဆရာတော်ကြီးအား 'မာလာလင်္ကာရဓဇ ဓမ္မသေနာပတိ အတုလ ဓိပတိ သီရိပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု' ဘွဲ့တံဆိပ် တော်ကို ထပ်မံလှူပြန်သည်။

တောင်တော် ဆရာတော်ကြီးသည် အရှေ့ပြင် တိုက် တော်နှင့် နန်းတွင်း မှန်ကျောင်း၌ လှည့်လည် သီတင်းသုံး သည်။ အနောက်ပြင် တိုက်တော်အတွင်း ရေတွင်းဒါယကာ ကြီး ဦးထွန်း ဆောက်လုပ် လှူဒါန်းသော ကျောင်းဦး ပြာသာဒ်၊ စနု၊ သုံးထပ် ဇေတဝန် အနောက်ဆောင်များ ပါရှိသော ကျောင်းကြီး၌ သီတင်းသုံးသည်။

၁၂၄၇ ခုနှစ် သီပေါမင်း ပါတော်မူပြီးနောက် အင်္ဂလိပ်အစိုးရ လက်ထက်၌လည်း တောင်တော် ဆရာတော်ကြီးကိုပင် ဆက်လက်၍ သာသနာပိုင်အဖြစ် အသိအမှတ်ပြုသည်။ ထိုအခါက သာသနာပိုင် ဆရာတော်ကြီးက သာသနာရေး သာသနာမှုကို ဆောင်ရွက်ရာ၌ အကူအညီရရန် ဝိယာအဖြစ် လှုထွေ ဆရာတော်နှင့် ပခန်းဆရာတော် နှစ်ပါးကို အင်္ဂလိပ်အစိုးရထံတောင်းရာ အစိုးရက ခွင့်ပြုသည်။ တလလျှင် သာသနာပိုင် ဆရာတော်အား ဆွမ်းဆန် ၂၅ အိတ်၊ ဝိ-ယာ ဆရာတော် နှစ်ပါးအား တပါးလျှင် ဆွမ်းဆန် ၁၀ အိတ်စီ၊ ဆွမ်းဆန် ၄၅ အိတ် ထောက်ပံ့သည်။ ယင်းဆွမ်းဆန်တော်တို့ကို သာသနာပြု ဆရာတော်တို့ ဝေငှ သုံးစွဲကြသည်။ မြန်မာဘုရင်မင်းမြတ် ရှိစဉ်က သာသနာရေး သာသနာမှုတို့ကို သုဓမ္မာစရပ်၌ စီရင် ဆုံးဖြတ်ကြသည်။ အင်္ဂလိပ်အစိုးရ လက်ထက် ရောက်သောအခါ မန္တလေးမြို့ရိုးအတွင်း စွယ်တော်စင်၏ အရှေ့ဖက်ရှိ ကင်းဝန်မင်းကြီးအိမ်၌ စီရင် ဆုံးဖြတ်သည်။

တောင်တော် ဆရာတော်ကြီးသည် သက်တော် ၇၆ ခန့် ၁၂၅၆ခုနှစ်တွင် အနောက်တိုက်တော်၌ပျံလွန်တော်မူသည်။

**(၂၈) သမ္မုတိ သာသနာပိုင် ပခန်းဆရာတော်။** ။ ပခန်း ဆရာတော်ကား သက္ကရာဇ် ၁၁၈၂ ခု ပြာသိုလဆန်း ခြောက်ရက် စနေနေ့တွင် ဖွားမြင်သည်။ ဇာတိ ပခုက္ကူမြို့ အရှေ့တောင် မြန်မာခရီး ဆယ်တိုင်ခန့် ကွာဝေးသော ရေရှားရွာ ဖြစ်သည်။ သက်တော်စေ့ ရဟန်းပြုသည်။ ရဟန်းမည် ရှင်နန္ဒဖြစ်သည်။ မန္တလေးမြို့သို့ ရောက်သောအခါ အရှေ့ပြင် မဟာဝိသုတာရာမ တိုက်တော်၌ သာသနာပိုင် ဒုတိယ မောင်းထောင် ဆရာတော် အရှင်ဥဇ္ဈမ္မထံ ပိဋကတ်ကျမ်းဂန်တို့ကို သင်ကြားသည်။ နောက်အခါ ယင်း တိုက်တော်အတွင်း ရွှေရေး ကျောင်း၌ သီတင်းသုံးသည်။ သီပေါမင်း အမထော် ပခန်းကြီး စုဖုရားက ကိုးကွယ်သည်။

သီပေါမင်း နန်းတက်သောနှစ် တန်ဆောင်မုန်း လပြည့်ကျော် ခြောက်ရက်နေ့ သာသနာပြု သုဓမ္မာအဖွဲ့ တကျိပ်နှစ်ပါး ဖွဲ့စည်းရာ ပခန်းဆရာတော် ပါဝင်သည်။ ဤနေရာ၌ 'တံဆိပ်ရ ဆရာတော် တကျိပ်နှစ်ပါး'ဟု မဟာရာဇဝင်ကြီး၌ အဆိုရှိ၏။ တံဆိပ် အသီးအသီးကိုလည်း ဖော်ပြခြင်း မရှိ။ မင်းတုန်းမင်း လက်ထက်၌လည်း တံဆိပ် ပေးအပ်သောစာရင်း သီးခြားမပါ။ သီပေါမင်းလည်း နန်းတက်စဖြစ်၍ ဆရာတော်တို့အား တံဆိပ် ပေးအပ်ခြင်း မရှိသေး။ သို့သော်လည်း ပခန်းဆရာတော်မှာ သုဓမ္မာအဖွဲ့ တကျိပ်နှစ်ပါး ဖွဲ့စည်းရာ အပါအဝင်ဖြစ်၍ တံဆိပ်ကိုပင် မသိရသော်လည်း မင်းတုန်းမင်း လက်ထက်ကပင် တံဆိပ် ရခဲ့ကြောင်း ထင်ရှားသည်။

၁၂၄၆ ခုနှစ် ဝါခေါင်လတွင် သီပေါမင်းက ဆရာတော် သံဃာတော် ရှစ်ဆယ်တို့အား ဘွဲ့တံဆိပ်ကပ်လှူရာ၌ ပခန်းဆရာတော်အား 'နန္ဒာဘိဓဇ မိပတိ သီရိပဝရ မဟာဓမ္မရာဇာဓိ ရာဇဂုရု' ဘွဲ့တံဆိပ်တော်ကို ကပ်လှူသည်။

သီပေါမင်း လက်ထက် မန္တလေး မြို့တော် တည်ရန် ခုနစ်ဌာန ပန္နက်ချရာ အပါအဝင် မဟာအတုလဝိဇယာရာမတိုက်ကြီးအတွင်း မဟာအတုလဝေယန် ကမ္ပည်းတပ်သော အတုမရှိ ကျောင်းတော်ကြီးကို ကြီးမှူးအုပ်ချုပ်ရန် မြို့ပေါ်ရှိ တံဆိပ်တော်ရ ဆရာတော်တို့ကို မဲချရာ သုံးကြိမ်တိတိ မဲကျသော ပခန်းဆရာတော်အား အတုမရှိ ကျောင်းတော်ကြီး၏ အရှေ့ဖက်ရှိ မင်းတုန်းမင်း၏ နန်းတော်ဟောင်းကို ရွှေပြောင်း ဆောက်လုပ်ထားသော ရွှေနန်းကျောင်းကို တင်လှူ သီတင်းသုံးစေသည်။

၁၂၅၆ ခုနှစ် သာသနာပိုင် တောင်တော် ဆရာတော်ဘုရားကြီး ပျံလွန်သောအခါ သုဓမ္မာအဖွဲ့ဝင် တကျိပ်နှစ်ပါး ဆရာတော်တို့သည် သာသနာရေး သာသနာမှုကို စီရင်ဆုံးဖြတ်ရာ၌ တောင်တော် ဆရာတော်မှ ဆင်းသက်လာသော အခွင့်အာဏာသည် မိမိတို့၌သာ ရှိသည်ဟု ယူဆပြီးလျှင် မိမိတို့ နှစ်သက်ရာ မိုးကောင်း ဆရာတော် အရှင်နာဂိန္ဒကို သမ္မုတိ သာသနာပိုင် တင်မြှောက်ကြသည်။

၁၂၅၇ ခုနှစ် နယုန်လဆန်း ခုနစ်ရက်နေ့တွင် မန္တလေးမြို့ပေါ် လေးပြင် လေးရပ်ရှိ ဆရာတော် သံဃာတော်များနှင့် ကင်းဝန်မင်းကြီး အမှူးရှိသော ဒါယကာတို့က အတုမရှိ တိုက်တော်ကြီးအတွင်းရှိ ရွှေနန်းကျောင်း၌ အစုံအညီစည်းဝေး၍အများဆန္ဒအရ ပခန်းဆရာတော်ကြီးကို သမ္မုတိ သာသနာပိုင် တင်မြှောက်ကြသည်။ (ထိုသို့နှစ်ပက္ခဖြစ်ကာ သမ္မုတိ သာသနာပိုင် နှစ်ပါး တင်မြှောက်ကြသော်လည်း အင်္ဂလိပ် အစိုးရက နှစ်ပါးလုံးကိုပင် အသိအမှတ်မပြု၊ လျစ်လျူရှု၍သာ နေသည်။ အသိအမှတ် မပြုသော်လည်း နှစ်ပက္ခ ဖြစ်လာသည့်အတိုင်း သာသနာရေး သာသနာမှုကို စီရင်ဆုံးဖြတ်ရာ၌ တစည်းတလုံးတည်း မဟုတ်တော့ပဲ အသီးအသီး ခွဲခြား၍ စီရင် ဆုံးဖြတ်ကြသည်။ သို့အတွက် မင်းတုန်းမင်း လက်ထက်မှစ၍ ရွှေကျင်ဂိုဏ်း၊ ဒွါရဂိုဏ်း၊ သုဓမ္မာဂိုဏ်းဟု သုံးဂိုဏ်း ကွဲလာခဲ့ရာ တဖန် သုဓမ္မာဂိုဏ်းမှ တကျိပ်နှစ်ပါးဂိုဏ်း ထပ်၍ ကွဲပြန်သဖြင့် လေးဂိုဏ်းဖြစ်လာသည်။)

ပခန်း ဆရာတော်ကြီးသည် သက်တော် ၇၈၊ ၁၂၆၀ ပြည့်နှစ်တွင် ပျံလွန်တော်မူသည်။

**သာသနာပိုင် မဲဆန္ဒဖြင့် ရွေးခြင်း။** ။အင်္ဂလိပ်အစိုးရလက်ထက် ၁၂၆၃ ခုနှစ်သို့ ရောက်သောအခါ လစ်လပ်လျက်ရှိသော သာသနာပိုင် တပါးကို ရွေးချယ်ရန် ရှေး မြန်မာမင်းတို့ လက်ထက်က ရာဇဂုရု ဘွဲ့တံဆိပ်ရရှိခဲ့သော ဆရာ

တော် ၃၃ ပါးကို သာသနာပိုင် အရွေးချယ်ခံ ပုဂ္ဂိုလ်များ အဖြစ် မန္တလေးမြို့ လေးပြင် လေးရပ်ရှိ ကျောင်းတိုက်များမှ တိုက်အုပ်၊ တိုက်ကြပ်၊ ကျောင်းထိုင် ဆရာတော်တို့ကို မဲဆန္ဒပေး ပုဂ္ဂိုလ်များအဖြစ် အများသဘောတူ သတ်မှတ်ပြဋ္ဌာန်းပြီးလျှင် ယင်းသည့်နှစ် သီတင်းကျွတ်လဆန်း ၅ ရက်နေ့ နံနက် ၉ နာရီ အချိန်တွင် မန္တလေး တောင်ခြေရှိ သုဓမ္မာစရပ် အနီး၌ မဏ္ဍပ်ကြီး ဆောက်လုပ်လျက် မဲဆန္ဒပေး၍ သာသနာပိုင် ရွေးချယ်ကြရာ မိုးထား ဆရာတော်က မဲပေါင်း ၃၉၆-ပဌမ၊ တောင်ခွင် ဆရာတော်က မဲပေါင်း ၁၉၅-ဒုတိယ၊ ဒုတ်လှမ်း ဆရာတော်က မဲပေါင်း ၇၆-တတိယ ရရှိကြသည်။

သာသနာပိုင် ရွေးချယ်ပွဲတွင် ပဌမ ရရှိသော မိုးထား ဆရာတော်မှာ အစိုးရက သာသနာပိုင်အဖြစ် အသိအမှတ်ပြုရန် စီစဉ်ဆဲမှာပင် ပျံလွန်သွားသဖြင့် ဒုတိယ ရရှိသော တောင်ခွင် ဆရာတော်ကိုပင် လောကရေး၊ ဓမ္မရေး၊ ရာဇရေးတို့၌ ကျွမ်းကျင် လိမ်မာသော ဆရာတော် ဖြစ်၍ ၁၂၆၅ ခုနှစ်တွင် အစိုးရက သာသနာပိုင်အဖြစ် အသိအမှတ်ပြုသောကြောင့် မဟာသံဃရာဇာသာသနာပိုင် အဖြစ်သို့ ရောက်သည်။

**(၂၉) သာသနာပိုင် မိုးထား ဆရာတော်။** ။မိုးထား ဆရာတော်ကား သက္ကရာဇ် ၁၁၉၂ ခုခန့်တွင် ဖွားမြင်သည်။ ဇာတိ လယ်ကိုင်းမြို့ဟု သက်ကြီးများထံမှ ကြားရဘူးသည်။ 'ကလျာဏာဘိဝံသ သဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု' တံဆိပ်တော်ရ လယ်ကိုင်း ဆရာတော်၏ တပည့်ဖြစ်သည်။ မင်းတုန်းမင်းတရားကြီး၏ မကွေးမြို့စား မိဖုရားက ရဟန်း ဒါယိကာမအဖြစ် ခံယူ၍ ရဟန်းအဖြစ်သို့ ရောက်သည်။ ရဟန်းအမည် ရှင်သုဇာတတည်း။

မင်းတုန်းမင်းတရားကြီး လက်ထက်၌ 'သုဇာတာဘိသိရိဓဇ မဟာဓမ္မရာဇဂုရု' ပဌမတံဆိပ်၊ သီပေါမင်း လက်ထက်၌ 'သုဇာတာဘိ သိရိဓဇ ဓိပတိ ပဝရ မဟာဓမ္မရာဇာဓိ ရာဇဂုရု' ဒုတိယတံဆိပ် အားဖြင့် ဘွဲ့တံဆိပ်တော် နှစ်ထပ် ရရှိသည်။

မန္တလေး မြို့တော် တောင်ပြင်၌ ကျီဝန်-မိုးထား ဝန်ကြီး ဆောက်လုပ်အပ်သော ကျောင်းတိုက်ကြီးကို အလှူခံပြီး သီတင်းသုံးသည့် အခါမှစ၍ ကျီဝန် ဆရာတော် ဟူ၍ရင်း၊ မိုးထားဆရာတော် ဟူ၍ရင်း ထင်ရှားသည်။ ကျောင်းတိုက်ကြီးလည်း ကျီဝန်တိုက် ဟူ၍ရင်း၊ မိုးထားတိုက် ဟူ၍ရင်း အမည်တွင်သည်။

မိုးထား ဆရာတော်သည် အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း သာသနာပိုင် အဖြစ် ရွေးချယ်ခြင်း ခံရသော်လည်း အစိုးရက သာသနာပိုင်အဖြစ် အသိအမှတ်ပြုရန် စီစဉ်နေဆဲ သက်တော် ၇၂ ခန့် ၁၂၆၄ ခုနှစ် ဝါတွင်းမှာပင် ပျံလွန်တော် မူရှာသည်။ ပြုစုသောကျမ်းကား ဝိနယရာသိ ဖြစ်သည်။

**(၃၀) သာသနာပိုင် တောင်ခွင်ဆရာတော်။** ။ တောင်ခွင် ဆရာတော်ကား သက္ကရာဇ် ၁၂၀၆ ခု နတ်တော်လဆန်း ၄ ရက်၊ ဗုဒ္ဓဟူးနေ့ နံနက် လေးပဟိုရ်အချိန် ဖွားမြင်သည်။ ဇာတိ အမရပူရမြို့၊ ရွှေစကား ဘုရားအနီး မဂ်လာရပ်၊ အဖ မင်းတုန်း တောင်စဉ် ခုနှစ်ခရိုင် စစ်ကဲတော်ကြီး၊ ရခိုင်လေးမြို့ စာရေးတော်ကြီး အင်းယဉ်ဇေယျ ရွှေတောင်နော်ရထာ အမတ်ကြီး၏သား ဦးမောင်မောင်၊ အမိ ရတနာပူရ စတုတ္ထ မြို့တည် မင်းတရားကြီး၏ ရိုးရင်း တော်ဖက် အဂ္ဂမဟာ သေနာပတိ ဝန်ရှင်တော် ကျောက်ဆောက်မြို့စား မင်းကြီး မဟာသီဟသူ၏ သမီး မယ်ရွှေဝ၊ လူမည် မောင်လွတ်ဖြစ်သည်။

အသက် ဆယ်နှစ်အရွယ်တွင် အမရပူရမြို့ အရှေ့တောင်ယွန်း၊ မြစ်ကွေ့မြို့စား ဝန်ကြီးမင်း ဆောက်လုပ်သော ဘုံကျော် ကျောင်းကြီး၌ သီတင်းသုံးသော ဘုံကျော် ဆရာတော်ဘုရားကြီးထံ အပ်နှံ၍ ပညာသင်ကြားသည်။ တဆဲ့လေးနှစ် အရွယ် သာမဏေပြုသည်။ သာမဏေအမည် ရှင်ဝိသုဒ္ဓါစာရ၊ သက်တော် နှစ်ဆယ်ပြည့်တွင် ရဟန်းပြုသည်။ ဥပဇ္ဈာယ်ဆရာ ဘုံကျော်ဆရာတော်ကြီး၊ ရဟန်းမည် ရှင်ဝိသုဒ္ဓါစာရဖြစ်သည်။ ရဟန်းအဖြစ်နှင့် ပါဠိ အဋ္ဌကထာ ဋီကာတို့ကို ဆက်လက်သင်ကြားသည်။

ရဟန်း ခုနစ်ဝါရသောအခါ မဟာဇောတိကာရာမတိုက် မင်္ဂလာစံကျောင်း၌ သီတင်းသုံးသော အရှင် သုဒဿနထံ ဆက်လက် ပညာသင်ကြားသည်။ ရှစ်ဝါရသောအခါ မင်းတုန်းမင်းတရားကြီးလက်ထက် မြေနန်းတော်တွင် ကျင်းပသော စာပြန်ပွဲ၌ အဘိဓမ္မာ ဝိဘင်း ပါဠိတော် ပဋ္ဌာန်းပါဠိတော်တို့ကို ပြန်ဆိုအောင်မြင်သဖြင့် ဆင်စွယ်တံဆိပ်ကို အလှူခံရသည်။ ဆယ်ဝါတွင် ဂဏဝါစက ပဌမစာချအဖြစ်ဖြင့် စံကျောင်းတိုက်အတွင်း မိဖုရားခေါင်ကြီး ဆောက်လုပ်သော ကျောင်း၌နေ၍ ငါးဝါပတ်လုံး စာပေပို့ချသည်။

သီပေါမင်းနန်းတက်သောအခါ ရတနာပုံနေပြည်တော် အနောက်တောင်ယွန်းတွင် ဝန်ရှင်တော် တောင်ခွင်မြို့စား သတိုးမင်းကြီး မဟာမင်းထင် စည်သူ ဆောက်လုပ်လှူဒါန်းအပ်သော ကျောင်းတော်ကြီး၌ သီတင်းသုံးစဉ် ဝါတော် ၁၈ ဝါအရ ၁၂၄၆ ခုနှစ်တွင် သီပေါမင်းက တောင်ခွင်ဆရာတော်အား 'ဝိသုဒ္ဓ သီလာစာရ ကဝိဓဇ မဟာ ဓမ္မရာဇာဓိ ရာဇဂုရု' ပဌမဘွဲ့တံဆိပ်တော်နှင့် ၁၂၄၇ ခုနှစ်တွင် 'ဝိသုဒ္ဓ သီလာစာရဓဇ သိရိပဝရ မဟာ ဓမ္မရာဇာဓိ ရာဇဂုရု' ဒုတိယ ဘွဲ့တံဆိပ်တော်ကို လှူဒါန်းသည်။

ထိုနောက် အင်္ဂလိပ် အစိုးရလက်ထက် ဝါတော် ၃၉ ဝါမြောက် ၁၂၆၅ ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် ၁၀

ရက် သောကြာနေ့တွင် သတ္တမ ဒွေက် ဘုရင်မင်းမြတ်၏ ကိုယ်စား အိန္ဒိယ ဘုရင်ခံချုပ်က မြန်မာနိုင်ငံ ဘုရင်ခံမင်းကြီး ဆာဟျူးဖန်းသို့ လွှဲအပ်ကာ မန္တလေးတောင်ခြေရှိ သုဓမ္မာစရပ်တော်တွင် ခမ်းနားကြီးကျယ်စွာ မင်းပွဲသဘင်ဆင်ယင်ကျင်းပလျက် တောင်ခွင်ဆရာတော်အား ဆာနပ်အမိန့်တော်နှင့်တကွ 'ဝိသုဒ္ဓ သီလာစာရ သိရိပဝရ ဓမ္မသေနာပတိ မဟာ သံဃရာဇာ'ဘွဲ့တံဆိပ်တော်ကို ကပ်လှူအပ်နှင်းသဖြင့် သံဃိဿရ-သံဃဦးကိုင် သာသနာပိုင်အဖြစ်သို့ ရောက်သည်။

၁၉၄၄ ခုနှစ်တွင် လောကီလောကုတ္တရာ ကျမ်းဂန်တို့၌ အလွန်ကျွမ်းကျင် လိမ်မာသော သာသနာပိုင် ဆရာတော်ကြီးအား ဘုရင်ခံမင်းကြီး ဆာ-ချား အင်းနစ် အမှူးရှိသော ယူနီဗာစီတီ သိပ္ပံကျောင်းကြီး၏ ဆီနိတ်လူကြီးများ အဖွဲ့က မြန်မာစာပေ ကျမ်းဂန် ပိဋကတ်အရာ ပါရဂူမြောက် (ဒီ-လစ်) ဘွဲ့တံဆိပ်ကို ကပ်လှူအပ်နှင်းကြသည်။

သာသနာပိုင် ဆရာတော်ကြီးသည် ဝါတော် ၆၁ ဝါ ရရှိသောအခါ အသက်အရွယ်ကြီးရင့်ပြီဖြစ်၍သာသနာရေး သာသနာမှုကို စီရင်ဆုံးဖြတ်ရန် သုဓမ္မာဆရာတော်တို့အား လွှဲအပ်ကာ ချမ်းသာစွာ နေလိုသဖြင့် မိမိငယ်စဉ်က သာမဏေဖြစ်ရာ ရဟန်းဖြစ်ရာ အမရပူရမြို့ဘုံကျော်တိုက်ကြီးသို့ ပြောင်းရွှေ့ သီတင်းသုံးသည်။ သက်တော် ၉၄၊ ဝါတော် ၇၅၊ ၁၂၉၉ ခုနှစ် တပေါင်းလပြည့်ကျော် ၂ ရက် ကြာသပတေးနေ့နံနက် ၇ နာရီ ၁၅ မိနစ်အချိန်တွင် ဘုံကျော်တိုက်ကြီးမှာပင် ပျံလွန်တော်မူသည်။

တောင်ခွင် သာသနာပိုင် ဆရာတော်ကြီး ပြုစုသော ကျမ်းတို့မှာ ပဋ္ဌိပတ္တိက္ကမ ဒီပနီ၊ ဝိနိစ္ဆယကျမ်းပေါင်း ရှစ်ဆယ်ကျော် ပါဝင်သော ဂဠုတ္တဝိနိစ္ဆယကျမ်း ပဌမတွဲနှင့် ဒုတိယတွဲ စသည်တို့ဖြစ်သည်။

တောင်ခွင် သာသနာပိုင်ဆရာတော်ကြီး ပျံလွန်တော်မူသည့်နောက် သုဓမ္မာဂိုဏ်း၌ သာသနာပိုင် တင်မြှောက်ခြင်း မရှိ၊ ဂိုဏ်း အကြီးအမှူး မဟာနာယကဆရာတော် အဆက်ဆက်တို့ သာသနာရေး သာသနာမှုကို စီရင်ဆုံးဖြတ်ကြသည်။

၁၃၂၁ ခုနှစ်မှစ၍ နိုင်ငံတော်အစိုးရက ဂိုဏ်းကြီး သုံးဂိုဏ်းလုံးမှာ သက်ဆိုင်ရာဂိုဏ်း၏ အကြီးအမှူး ကိုးကွယ်ရာကို နိုင်ငံတော်၏ ကိုးကွယ်ရာအဖြစ်ဖြင့် သုဓမ္မာ ဂိုဏ်းတွင် ဆရာတော်ကြီး နှစ်ပါး၊ ရွှေကျင်ဂိုဏ်းတွင် ဆရာတော်ကြီး တပါး၊ ဒွါရဂိုဏ်းတွင် ဆရာတော်ကြီးတပါး ဤဆရာတော်ကြီးလေးပါးတို့အား 'အဘိဓဇ မဟာရဋ္ဌဂုရု'ဘွဲ့တံဆိပ်တိုကို လှူဒါန်းသည်။ (အဘိဓဇ မဟာရဋ္ဌဂုရု — လည်းရှု။)

သာသနာရေး သာသနာမှုကို စီရင် ဆုံးဖြတ်ရန်ကား အစိုးရက သာသနာရေးဌာန သီးခြားဖွင့်လှစ်ကာ 'ဝိနိစ္ဆယဌာန အက်ဥပဒေ'ပြဋ္ဌာန်း၍ ယင်း အက်ဥပဒေအရ ခရိုင်တိုင်း မြို့နယ်တိုင်း၌ ဝိနည်းဓိုရ်ဆရာတော်များ တင်မြှောက်၍ ဝိနိစ္ဆယ ဌာနများ ဖွင့်လှစ်ပြီးလျှင် သာသနာရေးဌာန၏ အကူအညီ အထောက်အပံ့ဖြင့် ဝိနည်းဓိုရ် ဆရာတော်များက မိမိတို့သက်ဆိုင်ရာ ခရိုင်၊ မြို့နယ်တို့၌ဖြစ်ပွားသော သာသနာရေး သာသနာမှုတို့ကို စီရင် ဆုံးဖြတ်ကြလေသည်။

ဦးကြီးဖေ

**သားပိုက်ကောင်။** ။သားငယ်ကို မိခင်၏ဝမ်းပိုက်အပြင်ဖက်ရှိ အိတ်တွင်ထည့်၍ သွားလေရာသို့ ယူဆောင်သွားတတ်သောကြောင့် သားပိုက်ကောင်ဟု ခေါ်သော ထူးဆန်းသည့် နို့တိုက် သတ္တဝါတမျိုးသည် မန်မေးလီးယားမျိုးပေါင်းတွင် မာဆူးပီယယ်လီးယားမျိုးစဉ်၌ပါဝင်သည်။ ရှေးအခါက သားပိုက်ကောင်မျိုးကို ကမ္ဘာ အနှံ့အပြားလောက်တွင် တွေ့ရသော်လည်း ယခုအခါတွင်ကား ယင်းတို့ကို အမေရိကတိုက်နှင့် ဩစတြေလီးယား တိုက်တို့တွင်သာ တွေ့ရတော့သည်။အိုပေါ့ဆမ် သားပိုက်ကောင်မျိုးကို အမေရိကန် ပြည်ထောင်စု၌သာ တွေ့ရသည်။ ကင်ဂရူး သားပိုက်ကောင်နှင့် အခြားသားပိုက်ကောင်မျိုးကိုမူ ဩစတြေးလီးယားတိုက်၌ တွေ့ရသည်။

မွေးခါစ သားပိုက်ကောင်ကလေးများသည် မိခင် သားပိုက်ကောင်မကြီးနှင့်စာလျှင် အလွန်ပင်သေးငယ်ကြသည်။ အချို့သော သားပိုက်ကောင်မျိုးတွင် သားငယ်များသည် နှာခေါင်းမှ အမြီးဖျားထိ တလက်မခန့်လောက်သာ ရှည်၍ အရောင်မှာ အုန်းခွံရောင်နီးနီး ရှိသည်။ ဤမျှ သေးငယ်သော သားငယ်ကလေးများသည် မိခင်၏ အမွေးကို တွယ်၍ ဝမ်းပိုက်ပြင်ဖက်ရှိ အိတ်ထဲသို့ တွားကာ၊ တွားကာ ဝင်သွားလေသည်။ အိတ်ထဲသို့ ရောက်ခါမှ အိတ်တွင်းရှိ မိခင်၏ နို့သီးခေါင်းကိုငုံကာ နို့ရည်ကို သောက်စို့၍ အတော်ကလေးကြီးပြင်းလာသည်အထိ နေသည်။ စင်စစ် မွေးခါစ သားပိုက်ကောင် ကလေးများသည် အလွန် သနားစရာကောင်း၏။ အမွေးလည်း မပါ၊ အရည်ပါးကလေးမျှသာ ဖုံးအုပ်လျက် ရှိရကား မိခင်၏ သဘာဝအိတ်တွင် မိခင်၏ ရင်ငွေ့နှင့် နို့ရည်ကို အာရုံပြုကာ ကြီးပြင်း လာရရှာသည်။ မိခင်၏ နို့ရည်ကို စို့ရာ၌လည်း ကိုယ်ထည် အလွန်သေးငယ်သောကြောင့် စို့အား မရှိသဖြင့် မိခင်က သဘာဝအလျောက် သားငယ်၏ ပါးစပ်ထဲသို့ ညှစ်၍ညှစ်၍ ထုတ်ပေးလေ့ရှိသည်။ ဤသို့အားဖြင့် အတော်ကြီးပြင်းလာမှ အပြင်သို့ ထွက်စ ပြုကြသည်။ မိမိတို့ကိုယ်ကို ကာကွယ်စောင့်ရှောက်နိုင်သည့် အရွယ်သို့ ရောက်သည့်တိုင်အောင် အကြောင်း တခုခုကြောင့် လန့်ဖျပ်ခဲ့သည်ရှိသော် မိခင်အိတ်ထဲသို့ ဝင်ပြေးလေ့ ရှိသည်။



နို့တိုက်သတ္တဝါတမျိုးဖြစ်သည့် ကင်ဂရူး သားပိုက်ကောင်

သားပိုက်ကောင်မျိုးပေါင်း အမြောက်အမြား ရှိသည့်အနက် အချို့သည် မြေပေါ်တွင်နေ၍ အချို့မှာ သစ်ပင်ပေါ်တွင် နေကြသည်။ သားပိုက်ကောင် တမျိုးမှာ မြေအောက်တွင် နေသည်။ အချို့ သားပိုက်ကောင်မျိုးသည် အသားစား၍ အချို့က အပင်ကလေးများကိုသာ စားသည်။ အချို့က ပိုးကောင်များကိုသာ စားလျက် အချို့ကား ဘာမဆို ရရာကို စားတတ်ကြသည်။

သားပိုက်ကောင် မျိုးပေါင်း များစွာ ရှိသည့်အနက် ကင်ဂရူး သားပိုက်ကောင်သည် အမျိုး အကြီးဆုံး ဖြစ်သည်။ ကင်ဂရူး သားပိုက်ကောင်မျိုးမှာပင် အမျိုးပေါင်း ၅၀ ကျော် ၁၀၀ ခန့် ရှိပြန်သည့်အနက် အကြီးဆုံး မီးခိုးရောင်ရှိသော အမျိုးမှာ အလေးချိန် ပေါင် ၂၀၀ အထိ ရှိ၍ နှာခေါင်းမှ အမြီးဖျားအထိ ၁၀ ပေ ရှည်သည်။ အမြီးတချောင်းတည်းပင် လေးပေခန့်ရှည်၍ အမြီးရင်းတွင် ရှိသော သန်မာသည့် ကြွက်သားများမှာ အခြားတိရစ္ဆာန်များ၏ ကိုယ်လုံးလောက်ကြီးမားသည်။ အငယ်ဆုံးအမျိုးမှာ ယုန်လောက်ပင် မကြီးချေ။ ယင်း ကင်ဂရူး သားပိုက်ကောင်မျိုးကို ဩစတြေးလီးယားတိုက်၊ နယူးဂင်းနီကျွန်းနှင့် အနီးတဝိုက်ရှိ ကျွန်းများတွင်သာ တွေ့ရသည်။ (ကင်ဂရူးကောင် — ရှု။)

အမေရိကတိုက်၌သာတွေ့ရသော အိုပေါ့ဆမ် သားပိုက်ကောင်မျိုးသည် အိမ်ကြောင် အရွယ်ခန့်လောက် ရှိ၍ ဦးခေါင်း သေးပြီးလျှင် ချွန်သည်။ ယင်း သားပိုက်ကောင်မျိုးသည် တကြိမ်လျှင် သား တဒါဇင် ကျော်ကျော်အထိ မွေး၍ မွေးခါစ သားငယ် ကလေးများမှာ လက်မဝက်လောက်သာ ရှည်သည်။ (အိုပေါ့ဆမ်ကောင် — ရှု။)

ကင်ဂရူး သားပိုက်ကောင်မျိုးနှင့် အိုပေါ့ဆမ် သားပိုက်ကောင်မျိုးတို့အပြင် ကြွက်နှင့်တူသော သားပိုက်ကောင်စသည်ဖြင့် အမျိုးမျိုးရှိကြသည်။ ကွားလားကောင်သည် ဝက်ဝံနှင့် တူသော သားပိုက်ကောင်မျိုး ဖြစ်လေသည်။ (ကွားလားကောင် — ရှု။)

**သားမင်း။** ။သားမင်းသည် တောဆိတ်၊ နွား၊ သိုး၊ ဆိတ်တို့ကဲ့သို့ ဗိုဗီဒီး မျိုးရင်းဝင်ဖြစ်၍ ရွှားပါးသော နို့တိုက်သတ္တဝါဖြစ်သည်။ ပါဏဗေဒအလိုအရ ဗုဒေါကပ် တက္ကဆီကာလာ တက္ကဆီကာလာဟု ခေါ်သည်။ သားမင်းတွင် တောဆိတ်မှာကဲ့သို့ ခွာခွဲများနှင့် ဦးချိုများရှိ၍ ယင်းကဲ့သို့ စားမြုံ့လည်း ပြန်သည်။ သားမင်း၏ ဦးချိုသည် သမင်မျိုး၏ ဦးချိုများကဲ့သို့ ခေါင်းပိတ်မဟုတ်ပဲ ကျွဲ၊ နွား၊ သိုး၊ ဆိတ်တို့၏ ဦးချိုကဲ့သို့ ခေါင်းပွ ဖြစ်သည်။ သမင်ဦးချိုကဲ့သို့ ခွလျက်လည်း မရှိချေ။ ဆိတ် ဦးချိုကဲ့သို့ ဖြောင့်၍ ချွန်ပြီးလျှင် နောက်ဖက်သို့ အနည်းငယ်ယိုင်လျက်ရှိသည်။ အဖိုတွင်ရော အမတွင်ပါ ဦးချိုပေါက်၍ အဖို၏ ဦးချိုသည် လက်မ ၂၀ သာသာ ရှည်တတ်ကာ အမ၏ဦးချိုမှာ ထိုထက်တိုသည်။ သားမင်းသည် တောဆိတ်နှင့် ဆိတ်ရိုးရိုးကြားတွင် ရှိနေသော သတ္တဝါတမျိုး ဖြစ်သည်။

သားမင်းကို တိဗက်နိုင်ငံ အရှေ့တောင်ပိုင်း၊ မြန်မာနိုင်ငံ မြောက်ပိုင်းနှင့် တရုပ်နိုင်ငံ အနောက်ဖက်ရှိ မြင့်မားသော တောင်တန်းများ၌သာတွေ့ရသည်။ မြန်မာနိုင်ငံ၌ သားမင်းကို အာသံ—မြန်မာ နယ်စပ်နှင့် ကချင်ပြည်နယ်၊ ပူတာအိုခရိုင် မြောက်ဖက် အစွန်ဆုံးရှိ ပေတသောင်းကျော် မြင့်သော တောင်များပေါ်၌ တွေ့ရသည်။ ဤ သားမင်းမျိုးအပြင် တရုပ်—မြန်မာ နယ်စပ်ရှိ ပေတသောင်းကျော် မြင့်သော ဘောင်များပေါ်၌ တွေ့ရသော သားမင်း တမျိုးနှင့် တရုပ်နိုင်ငံ အနောက်ပိုင်းရှိ နယ်များ၌ တွေ့ရသော ရွှေရောင် သားမင်းဟူ၍လည်း ရှိသေးသည်။

မြန်မာနိုင်ငံ ကချင်ပြည်နယ်၏ မြောက်ဖက်အစွန်ဆုံးကျသော ပူတာအို ခရိုင်တွင် သားမင်းများသည် ရေခဲသည့်နေရာနှင့် နီးကပ်လျက်ရှိသော ဒေသ၌ရင်း၊ ကျစ်တွင်းရှိရာ နေရာနှင့် အလွန်နီးကပ်လျက်ရှိသော ဒေသ၌ရင်း အုပ်လိုက်ဖြစ်စေ၊ နှစ်ကောင်တွဲ သုံးကောင်တွဲ လေးကောင်တွဲဖြစ်စေ နေတတ်ကြသည်။ နွေဥတုနှင့် မိုးဥတုအချိန်များ

တွင် ပေပေါင်း ၇,၀၀၀ မှ ၁၀,၀၀၀ အထိသို့ ရေခဲသည့် နေရာနှင့် နီးကပ်စွာ တက်သွားပြီးလျှင် ဆောင်းဥတုတွင် နှင်းများကျလာသည့်အခါ မြေပြန့်အရပ်သို့ တဖြည်းဖြည်းဆင်းလာကြသည်။ မိုးဥတုအချိန်တွင် ကျစ်တွင်းများ၌ ရေမသောက်ကြချေ။ နွေနှင့် ဆောင်း အချိန်များတွင်သာ ကျစ်တွင်းများ၌ ရေသောက်တတ်ကြသည်။ မိုးကုန်စ စက်တင်ဘာလလောက်တွင် ကျသော လပြည့်သည့် ညဥ့်တညဥ့်တွင် ရှိရှိသမျှ သားမင်း အားလုံးသည် နီးစပ်ရာ ကျစ်တွင်းသို့ ဆင်းကြသဖြင့် ထိုလသည် သားမင်းများကို အများဆုံး တွေ့ရသောအချိန် ဖြစ်သည်။ အခြား အချိန်များ၌ တကောင်စ နှစ်ကောင်စသာ ကျစ်တွင်း၌ ရေသောက်တတ်ကြသည်။

သားမင်း အကောင်ကြီး များသည် အမြင့် သုံးပေခြောက်လက်မမှ လေးပေအထိ အရွယ်အမျိုးမျိုး ရှိကြ၍ အလျားမှာ အမြီးအပါအဝင် ရှစ်ပေမှ ကိုးပေထိရှည်သည်။ အမြီးမှာ ခြောက်လက်မခန့်မျှသာ ရှည်သည်။ သားမင်း၏ ပုံပန်းသဏ္ဌာန်မှာ အချိုးအစား မကျလှချေ။ ကြီးမားသော ကိုယ်ထည်နှင့် တို၍ တုတ်ခိုင်သောခြေထောက်များရှိသည့်ပြင် ကြမ်းတမ်းသော အညိုရောင်၊ မွဲပြာရောင်၊ သို့မဟုတ် နီဝါရောင် အမွေးများ ဖုံးအုပ်လျက် ရှိသည်။ ဦးခေါင်းမည်း၍ လည်ပင်း တုတ်ပြီးလျှင် နှာတံတွင် အမွေးတိုများရှိသည်။ နားရွက်မှာ ငယ်၍ တွန့်လိမ်လျက်ရှိသည်။

သားမင်းများသည် ပေ ၇,၀၀၀ ကျော်အမြင့်ရှိ တောထူ၍ စောက်သော တောင်ကုန်းများကို နှစ်သက်ကြသည်။ ညဥ့်အချိန်များတွင် တောမှထွက်၍ လွင်ပြင်ရှိအပင်ငယ်နှင့် မြက်များကို ရှာဖွေ စားသောက်ကြသည်။ သစ်ပင်မှ အခေါက်များကိုလည်း စားကြကြောင်း သိရသည်။ အနံ့ခံ အလွန်ကောင်းကြသည်။

သားမင်းများသည် အလွန်ရှားပါးသဖြင့် ကမ္ဘာတွင် မည်သည့် တိရစ္ဆာန် ဥယျာဉ်တွင်မှ မရှိသေးချေ။ ရန်ကုန် တိရစ္ဆာန်ဥယျာဉ်တွင် ကချင်ပြည်နယ်မှ ဖမ်းဆီးရမိသော သားမင်းနှစ်ကောင်နှင့် ဥယျာဉ်ပေါက် တကောင်ရှိသည်။ အချို့က သားမင်းကို အရှင်ဖမ်း၍ နိုင်ငံခြား တင်ပို့ရောင်းချသည့်ပြင် ထိုဒေသရှိ မုဆိုးများကလည်း သေနတ်နှင့်ပစ်၍ အသားစားပြီး သားရေကို အသုံးပြုကြသည်။ ဤသို့ဖြင့် မကြာမီ အတွင်း သားမင်းများ အမျိုးပါ ပြုတ်သွား



ရေခဲသည့် ကုန်းမြင့်အရပ်ဒေသများတွင် နေထိုင်ရန် နှစ်သက်သည့် သားမင်း

စရာ အကြောင်းရှိသဖြင့် ယခုအခါ သစ်တောဥပဒေဖြင့် ယင်းတို့ကို ဖမ်းဆီးခြင်း၊ပစ်ခတ်ခြင်းမှ တားမြစ်ထားသည်။

သားမင်းများကို အရှင် ဖမ်းလိုသည့်အခါ အတော် ခက်ခက်ခဲခဲ ဖမ်းရသည်။ ပဌမတွင် သားမင်းများ သောက် တတ်သည့် အနီးဆုံး ကျစ်တွင်းတခုခုကို ရွေးချယ်ပြီးလျှင် တနှစ်ခန့်လောက် ထိုတိရစ္ဆာန်များ၏ အနေအထိုင်၊အသွား အလာ၊ သားယံများ မွေးသည့် အချိန်၊ ဖမ်းရန် အချက် ပိုင်သည့် မြေနေရာ စသည်များကို လေ့လာရန် လိုသည်။ ဤသို့ တနှစ်ခန့်လောက် စုံစမ်း လေ့လာ ပြီးသောအခါ ချက်ပိုင်သည့် နေရာတခုတွင် သစ်ဝါးများဖြင့် ခိုင်ခန့်သော ခြံတခု ခတ်ရသည်။ ယင်းသို့ ခြံခတ်ပြီးလျှင် ဝင်လာမည့် ဖက်က တံခါးပေါက်ကို အရှင်ထား၍ ဖွင့်လျက် လူများ ပုန်းအောင်းကာ စောင့်နေကြရသည်။ ဝင်လာသောအခါ တံခါးကို ဖြုတ်လိုက်ရသည်။ ဝင်လာသော အကောင် များတွင် မလိုသောအကောင်ကြီးများကို ခွဲခြား၍ လွှတ် ပစ်ပြီးလျှင် အသက်အရွယ် နုနယ်သော အကောင်ကလေး များကို ချန်လှပ်ထားလျက် ခတ်ထားသော ခြံဝင်းကို တဖြည်းဖြည်းရွှေကာ ကျဉ်းပေးရသည်။ ယင်းသို့ အလွန် ကျဉ်းလာပြီး လူလက်လှမ်းမှီသောအခါ နွေတိုင်းကိုင်တွယ် ပွတ်သပ်ပေးခြင်း၊ ယင်းတို့ကြိုက်တတ်သော အစာများနှင့် ရေကို တိုက်ကျွေးခြင်းတို့ကိုပြုကာ တလနှစ်လခန့် ယဉ်လာ သည့်တိုင်အောင် ထားရလေသည်။ ယဉ်လာသော အခါမှ လှောင်အိမ်ကြီးတွင်ထည့်၍ ယူလာရသည်။

**သားမွေး။** ။ရှေး အလွန်ကျသော ခေတ်မှ ယခု မျက် မှောက်ခေတ်တိုင်အောင် လူတို့ အမြတ်တနိုးထား၍ ဝတ် ဆင်ကြသည့် အဝတ်အထည် တမျိုးမှာ သားမွေးထည်ပင် ဖြစ်သည်။ခေတ်မှီအဝတ်အထည်များ မည်မျှပင်ပေါ်ပေါက် စေကာမူ သားမွေးထည်ကိုကား အမြတ်တနိုး ထား၍ ဝတ်မြဲ ဝတ်ကြသည်မှာ ယင်းတို့၏ နွေးသည့် နေရာနှင့် ခန့်ညား ထယ်ဝါသည့် နေရာ၌ ပြိုင်ဖက်မရှိမှုကြောင့် ဖြစ်သည်။ ရှေးအခါက လွန်စွာချမ်းအေးသည့် အရပ်ဒေသ များတွင် နေထိုင်ကြသော လူများသည် အသက် ရှင်၍ နေနိုင်ရန်အတွက် အစာ အာဟာရကို ရှာဖွေစားသောက်ရ သကဲ့သို့ မိမိတို့ ကိုယ်ခန္ဓာကို အအေးဓာတ်မှ ကာကွယ်ရန် အလို့ငှာ အဝတ်အထည်များကိုရှာဖွေပြုလုပ်ကြရလေသည်။ ထိုအခါ၌ တိရစ္ဆာန်တို့၏အသားကို အာဟာရအဖြစ် မှီဝဲ၍ အရေနှင့် အမွေးကို အအေးမှကာကွယ်ရန် ဝတ်ဆင်ကြရ သည်။ သို့ဖြစ်၍ တိရစ္ဆာန်များ၏ အသားကို အစားအစာ အဖြစ်အသုံးပြုတတ်ကြသည့် အချိန်နှင့် တိရစ္ဆာန်များ၏ သားရေနှင့် အမွေးများကို အဝတ်အထည်အဖြစ် ဝတ်ဆင် ကြသည့်အချိန်မှာ များစွာ ကွာခြားမည် မဟုတ်ဟု ယူဆ ရပေသည်။ ကမ္ဘာ၏ မြောက်ပိုင်းတွင် နေထိုင်ကြသော လူရိုင်းများအဖို့ သားမွေးသည် မရှိလျှင်မဖြစ်သော **ပစ္စည်း** တခု ဖြစ်၍ အဖိုးတန်လေသည်။ သို့ရာတွင် အချို့သော ယဉ်ကျေးသည့် နိုင်ငံများတွင်မူ သားမွေးသည် ရှေးအခါမှ စ၍ ယခုအထိ အလှအပ ဇိမ်ခံပစ္စည်းတခု အဖြစ်နှင့်သာ အဖိုး ထိုက်တန်လေသည်။ တရုပ်လူမျိုးများကား လွန် ခဲ့သည့်နှစ်ပေါင်း ၃,၅၀၀ ခန့်ကစ၍ သားမွေးကို အရေး တယူ ဝတ်ဆင်ခဲ့ကြသည်ဟု သိရှိရသည်။

အလယ်ခေတ် ဥရောပ ယဉ်ကျေးမှုတွင် သားမွေးထည် သည် အလှအပ ဇိမ်ခံပစ္စည်းများစာရင်းတွင် ထိပ်တန်းက ပါဝင်လျက်ရှိ၏။ သားမွေးထည်များကို အသုံးပြုခြင်းသည် ဝိနည်းတော်ကျင့်စဉ်များနှင့် ဆန့်ကျင်သည်ဟု အကြောင်း ပြ၍ ဗုဒ္ဓဘာသာရဟန်းတော်များအား သားမွေးထည်များ ကို ဝတ်ဆင်ခြင်းမှ တားမြစ်ထားလေသည်။ ထိုခေတ်အခါ က လူများတွင်လည်း သာမန်လူများသည် သားမွေးကို အသုံးပြုခွင့် မရှိပဲ ဘုရင့် ဆွေတော် မျိုးတော်များနှင့် မှူးကြီး မတ်ကြီး စသည့် အထက်တန်းစားများသာ အသုံး ပြုနိုင်ခွင့် ရှိလေသည်။ သို့ဖြစ်၍ အလယ်ခေတ်တွင် လူ တယောက်၏ ဂုဏ် အဆင့်အတန်းကို ထိုသူ ဝတ်ဆင်ထား သော သားမွေးထည်၏ အမျိုးအစားနှင့် အရေအတွက် ပေါ်တွင် မူတည်ကာ ဆုံးဖြတ်လေ့ ရှိကြလေသည်။ များသောအားဖြင့် ထိုခေတ်က သားမွေးထည်များကို ယောကျ်ားများသာ ဝတ်ဆင်လေ့ရှိကြ၏။ အချို့သူများ သည် သားမွေးထည်ကို မိမိ၏အလုပ်အကိုင် ရာထူးအဆင့် အတန်းကို ဖော်ပြသည့် သဘောနှင့် ဆင်မြန်းကြရ၏။ ယခုခေတ်တွင် တရားလွှတ်တော် တရားသူကြီးများ အမှု စစ်ဆေးသည့်အခါ ခေါင်းတွင် ဆောင်းထားသော သားမွေး ဦးထုပ်များမှာ အဆိုပါ အလေ့အထမှ ကျန်ရစ်သော အမွေ အနှစ်တခုပင် ဖြစ်လေသည်။ အလယ်ခေတ်တွင် လူတိုင်း ဝယ်ယူ ဝတ်ဆင်နိုင်ခွင့်ရသော သားမွေးထည်မှာ သားမွေး ခေါင်းစွပ် ဖြစ်၏။ ထိုခေတ်က သားမွေး အများဆုံး ထွက် သော အရပ်ဒေသများမှာ ဥရောပတိုက် တောင်ပိုင်း၊ အလယ်ပိုင်းနှင့် ဗောလတစ် ပင်လယ်ကမ်းခြေ တဝိုက်ရှိ မြို့ရွာဒေသများ ဖြစ်လေသည်။

သားမွေးရသော သားကောင်များမှာ ကြွက်ကတိုး၊ စကန့်၊ အိုပေါ်ဆမ် သားပိုက်ကောင်၊ မြေခွေးပါဖြူ၊ မြေခွေးပါ မြီးရှည်၊ မြေခွေးပါမြီးတို၊ မြေခွေးပါကြီး၊ မြေခွေး၊ ရက်ကွန်းဝံ၊ ဗီဗာဖျံ၊ အော့တာဖျံ၊ ပင်လယ်ဖျံ၊ ကြောင်မြီးတို၊ဝံပုလွေ၊ ဝက်ဝံ၊ ယုန်၊ ဆေးဗယ်ခေါ် တောဆိတ်မျိုး၊ ချင်ချီလာ ရှဉ့်နှင့် အခြားရှဉ့်အမျိုးမျိုးတို့ ဖြစ်ကြသည်။

**သားမွေးထည်လုပ်ငန်း**

သားမွေးထည်များကို ပြုလုပ်ရာတွင် အဆင့် လေးဆင့်

ရှိ၏။ ပဌမအဆင့်မှာ သားမွေးရေအကြမ်းကို စင်ကြယ်၍ ပျော့ပျောင်းသွားစေရန် ဖွတ်လျှော်ဆေးကြောခြင်း ဖြစ်၏။ ဒုတိယ အဆင့်မှာ သားရေ အတွင်းဖက်ရှိ အသား အကြော အစအနများကို ခွာယူ၍ အတွန့်အတက်များ စန့်သွားအောင် ဆန့်ခြင်းဖြစ်သည်။ တတိယ အဆင့်မှာ သားရေစိမ်းကို သားရေကျက် ဖြစ်အောင် ဆေးစိမ်ခြင်း ဖြစ်၍ နောက်ဆုံးဖြစ်သော စတုတ္ထအဆင့်မှာ အချော ကိုင်ခြင်း ဖြစ်လေသည်။ တဆင့်နှင့်တဆင့် စပ်ကြားတွင် လည်း သားမွေးကို ကောင်းသည်ထက် ကောင်းအောင် ပြုပြင်ရသည့် အလုပ်များ ရှိသေးသည်။

သားမွေးစများကို ရရှိပြီးသည့်နောက် ဆေးဆိုးရ ပေ သေးသည်။ သားမွေးကို ဆေးဆိုးသည့် အတတ်မှာ ရှေး ပဝေဏီကပင် ပေါ်ပေါက်ခဲ့၏။ သို့ရာတွင် ၁၉ ရာစုခေတ် ကုန်ဆုံးခါနီး အချိန်ကျမှသာ သားမွေး ဆေးဆိုးခြင်းကို ခေတ်မှီသော ဓာတုဗေဒ နည်းစံနစ်တို့ဖြင့် စတင် ပြုလုပ် ကြလေသည်။ ထိုအချိန် မတိုင်မီကမူ သားမွေးကို ဆေးဆိုး ရာ၌ အသီးအရွက်၊ သို့မဟုတ် တွင်းထွက်သတ္တု အရောင် များဖြင့်သာ ဆိုးကြသည်။ ထိုနောက်တွင်ကား ဓာတု ဗေဒ ဆိုးဆေးများ ပေါ်ပေါက်လာပေရာ သားမွေးကို အရောင်အမျိုးမျိုး ဆိုးပေးကြလေသည်။ သို့ဖြစ်၍ မည်မျှ ညံ့ဖျင်းသော သားမွေး ဖြစ်စေကာမူ ဆေးဆိုးပေးလိုက် သောအခါ အရောင်တောက်၍ ချောမွတ် လာသကဲ့သို့ ဖြစ်သည်။ သားမွေး ဆေးဆိုးနည်းများကိုကား လုပ်ငန်း ရှင်များ၏ လျှို့ဝှက်ချက်ဖြစ်သဖြင့် ထိုလုပ်ငန်း အကြောင်း ကို အသေးစိတ် မသိရှိရပေ။ သားမွေး ဆေးဆိုးသူများ သည် တဦးလျှင် နည်းတမျိုးစီဖြင့် ပြုလုပ်ကြသည်ကို တွေ့ရှိ ရ၏။ တဦး၏ နည်းကို တဦးအား အသိပေးခြင်းလည်း မရှိချေ။

သားမွေးကို အဝတ်အထည် ချုပ်လုပ်ခြင်းမှာ ယခုအခါ များစွာ တိုးတက်လျက်ရှိနေလေသည်။ သားမွေး အဝတ် အထည်များတွင် ပုံစံသည် များစွာ အရေးကြီးလေသည်။ အခြား အဝတ်အထည်များ၌ ပုံစံအသစ်အဆန်း ထွင်၍ ချုပ်ကြသကဲ့သို့ သားမွေးထည်များတွင်လည်း ပုံသစ်ပုံဆန်း များ ထွင်ကြလေသည်။ ယင်းသို့ ဆန်းသစ်သော ပုံစံများ ကို ထွင်ကြသည်မှာ အဆန်းမဟုတ်ပေ။ အဘယ်ကြောင့် ဆိုသော် ရှေးခေတ်က ယောကျ်ားများသာ သားမွေးထည် ကို ဝတ်ဆင်လေ့ရှိကြသော်လည်း ယခုခေတ်တွင်ကား သား မွေးထည်များကို မိန်းမများက ပို၍ အသုံး ပြုကြသော ကြောင့် ဖြစ်လေသည်။

သားမွေးစ များကို အထည်အဖြစ် ချုပ်လုပ်ရာတွင် အထူး ပြုလုပ်ထားသည့် သားမွေးချုပ်စက်များကို အသုံးပြု ကြ၏။ သို့ရာတွင် သားမွေးစများကို ကိုက်ညှပ်ရာတွင်ကား



သားမွေးထည်အဖြစ် ချုပ်လုပ်ရန် သားမွေးရေများကို ပိုးဆောင်နေစဉ်

လက်ဖြင့်ပင် ပြုလုပ်ရလေသည်။ သို့ဖြစ်၍ အထည်ပုံကျ မကျ မှာ အထည်ညှပ်သူ၏ ကျွမ်းကျင်မှုပေါ်တွင် တည်သည်။ သို့ရာတွင် ချုပ်သည့်အခါတွင်လည်း သေသပ် ကောင်းမွန် ရန် အရေးကြီး၏။ အချုပ်အလုပ် သေသပ် ကောင်းမွန် သော သားမွေးထည်များတွင် သားမွေးကို ဖယ်ရှား၍ မကြည့်ပဲနှင့် ချုပ်ရိုးကိုမြင်နိုင်ရန် လွန်စွာ ခဲယဉ်းပေသည်။

သားမွေးထည်ကို များသောအားဖြင့် ကမ္ဘာ၏ အေး သော အပိုင်းတွင် နေထိုင်ကြသည့် လူများသာ ဝတ်ဆင် လေ့ရှိကြသည် ဆိုသောကြောင့် သားမွေးကို အေးသော အရပ်ဒေသများတွင်သာ ရရှိနိုင်သည်ဟု ယူဆလျှင် မှား ယွင်းပေလိမ့်မည်။ စင်စစ်မှာ သားမွေးများကို ကမ္ဘာအရပ် ရပ်မှ ရရှိနိုင်၍ သားမွေးထည်များကိုလည်း အေးသော တိုင်းပြည်များအတွက်သာမဟုတ် ပူအိုက်သော တိုင်းပြည် တို့တွင်လည်း အသုံးပြုနိုင်ရန် စီမံပြုလုပ်ကြလေသည်။ သို့ရာ တွင် အမွေးထူထပ်ပေါများသော သားမွေးတိရစ္ဆာန်များကို ကား ကမ္ဘာ၏အေးသောအပိုင်းများတွင်သာ ပိုမို၍ တွေ့ ရှိနိုင်ပေသည်။ မြောက်အမေရိကတိုက်၊ ကနေဒါနိုင်ငံ၊ ဥရောပတိုက် မြောက်ပိုင်း၊ ဆိုက်ဗီးရီးယားပြည်နယ်၊ ဩစတေးလီးယားတိုက်၊ တရုပ်နိုင်ငံ အစရှိသည့် ဒေသများ

မှာ ကမ္ဘာတွင် သားမွေးကောင်း ထွက်သော နေရာများ ဖြစ်ကြလေသည်။

သားမွေးထွက်ရာ ဒေသများ၌ သားမွေးရေ အထည်ကြမ်းများကို ထောင်ချောက်သမားများနှင့် တောလိုက်မုဆိုးများထံမှ သားမွေးကိုယ်စားလှယ်များက စုဆောင်းဝယ်ယူပြီးလျှင် အထည်အဖြစ် ပြုလုပ်၍ ရောင်းချကြ၏။ များသောအားဖြင့်ကား သားမွေးရေများကို ကိုယ်စားလှယ် ပွဲစားများမှ တဆင့် အချိန်ကာလ အားလျော်စွာ လေလံတင် ရောင်းချလေသည်။ ထင်ရှားသည့် သားမွေးလေလံဌာနများမှာ လန်ဒန်မြို့၊ လိုက်ပဆစ်မြို့၊ နယူးယော့မြို့တို့ဖြစ်၍ မွန်ထရီးအောမြို့၊ စိန့်လူစီမြို့၊ ပါရစ်မြို့၊ ဝင်နီပက်မြို့၊ ကိုပင်ဟားဂင်းမြို့၊ ဆီအက်တယ်မြို့၊ အက်ဒမန်တန်မြို့ တို့သည် သားမွေးကောင်း ရောင်းချရေး လုပ်ငန်းတွင် ဒုတိယ အထင်ရှားဆုံးမြို့များ ဖြစ်ကြလေသည်။

သားမွေးထည်များကို အမြောက်အမြား လုပ်ကိုင်သောသူများသည် မိမိတို့ အထည်များကို ဖြန့်ချိရေးဆိုင်များသို့ ၎င်း၊ လက်လီဆိုင်များသို့၎င်း ရောင်းချလေသည်။ အနည်းငယ်သာ လုပ်သော သားမွေးအထည်သည်ကလေးများကမူ မိမိတို့ ဆိုင်တွင်ပင် ပြသ ရောင်းချကြလေသည်။ လူထုနှင့် အများဆုံး တိုက်ရိုက်ဆက်သွယ်ရသော ဆိုင်မှာ လက်လီဆိုင်များဖြစ်ကြ၏။ အချို့ဆိုင်များသည် အထည်သစ်များကို ရောင်းချသည့် အလုပ်အပြင် သားမွေး အထည်ဟောင်းများကို ပြုပြင် ချုပ်လုပ်ပေးသည့် အလုပ်ကိုလည်း လုပ်ကိုင်ကြ၏။

ယခုအခါ သားမွေးထည်ကို အသုံးပြု များလာ၍ ကမ္ဘာ့ သားမွေးလုပ်ငန်းမှာ ကြီးကျယ်လာလေရာ သားမွေး သားရေစိမ်းများ အလုံအလောက် မရရှိနိုင်မည်ကိုပင် ပူပန်နေရသည့် အခြေသို့ ရောက်နေလေသည်။ သားမွေး လုပ်ငန်း၏ ရှေ့ရေးသည် ဤပြဿနာပေါ်တွင် အခြေတည်လျက် ရှိလေသည်။ ၁၉ ရာစုခေတ် ကုန်ဆုံး၍ ၂၀ ရာစုခေတ် ဆန်းသည့် အချိန်က စ၍ ကမ္ဘာတွင် သားမွေး သားရေစိမ်းများကို တနှစ်ထက်တနှစ် တိုးတက်၍ အသုံးပြုလာခဲ့ကြ၏။ သို့ရာတွင် သားမွေးထွက်သော တိရစ္ဆာန်များ၏ ဦးရေမှာ တနှစ်ထက် တနှစ် လျော့ပါးလျက်ရှိသည်ဟု ထင်မြင်ရပေသည်။ ဤသို့ဖြစ်ရခြင်းမှာ သား မွေး သားရေစိမ်းများကို အသုံးများလာသောကြောင့်၎င်း၊ ယခင်က လူမနေသည့် တောရိုင်းများကို ယခုအခါ လူများ ခုတ်ထွင်ရှင်းလင်း၍ နေထိုင်ကြသောကြောင့်၎င်း ဖြစ်သည်။ ဤ အခြေအတိုင်းသာ ဆက်လက်သွားလျှင် သားမွေးလုပ်ငန်းကို များစွာ ထိခိုက်နစ်နာမည်ဖြစ်၍ ယခုအခါ ကနေဒါ၊ အမေရိကန် ပြည်ထောင်စုနှင့် ဩစတြေးလီးယား အစိုးရတို့သည် မိမိတို့နိုင်ငံရှိ သားမွေးထွက်သည့် အရပ်ဒေသများကို ကြိုးဝိုင်း သတ်မှတ်ပြီးလျှင် လူများနေထိုင်ခြင်း၊ စည်းမဲ့ကမ်းမဲ့ တောများ ခုတ်ထွင်ခြင်း စသည်တို့ကို ဥပဒေဖြင့် တားမြစ်ထားကြလေသည်။ ထိုအပြင် သားမွေးဆေးဆိုးလုပ်ငန်းနှင့် သားမွေးထွက်သော တိရစ္ဆာန်များကို ကျွဲနွားများ မွေးမြူသကဲ့သို့ ခြံနှင့် မွေးမြူသည့် လုပ်ငန်းကို ချဲ့ထွင်လုပ်ကိုင်ခြင်းအားဖြင့် သားမွေးအခက်အခဲပြဿနာကို ဖြေရှင်းလျက် ရှိကြသည်။

# အစားထိုးမရသော လူသုံးပစ္စည်းတရပ်

**သားရေဖြင့် လူသုံးပစ္စည်းအမျိုးမျိုး ပြုလုပ်ကြသည်။ သားရေကို မည်သို့ ရရှိသနည်း။ သားရေရရှိသော တိရစ္ဆာန်များ၊ ရှေးသမားရိုးကျအတိုင်း ဆောင်ရွက်နေသော သားရေနယ်လုပ်ငန်း၊ သားရေလုပ်ငန်းအဆင့်ဆင့်၊ သားရေအမျိုးမျိုးအစားစားတို့နှင့်တကွ သားရေတုများ ပေါ်ပေါက်ခဲ့သော်လည်း သားရေစစ်၏ အဆင့်အတန်း မမီပုံကိုပါ တင်ပြထားသည်။**

**သားရေ။** ။သားရေသည် အလွန်အသုံးဝင်သော ပစ္စည်းတရပ်ဖြစ်သည်။ လူတို့၏ အသုံး အဆောင်များ ဖြစ်သော ဖိနပ်၊ သားရေသေတ္တာ၊ လက်ဆွဲအိတ် စသည်တို့အပြင် အဝတ် အစားများကိုပင် တခါတရံ သားရေဖြင့် ပြုလုပ်ကြသည်။ ထို့ပြင် အရာဝတ္ထုများကို တုတ်နှောင်ထားရန်သော်၎င်း၊ အဖုံး ဖုံးတို့ကို ဖုံးအုပ်ရန်သော်၎င်း သားရေကို အသုံးပြုကြသည်။ မြင်း၊ ဆင်၊ နွား အစရှိသော တိရစ္ဆာန်တို့၏ က ကြိုးတန်ဆာများကိုလည်း သားရေဖြင့်သာ ပြုလုပ်ကြလေသည်။

လူတို့အတွက် ဤမျှ အသုံးဝင်သော ပစ္စည်းကို မွေးမြူထားသော ကျွဲ၊ နွား၊ မြင်း၊ သိုး၊ ဆိတ်နှင့် ဝက်တို့၏ သားရေမှ များသောအားဖြင့် ရရှိကြသည်။ ပယ်လယ်ထဲ၌ ကျက်စားကြသော ရေသတ္တဝါများနှင့် ကုန်းပေါ်၌ ကျက်စားကြသော အခြား တိရစ္ဆာန်ရိုင်းများမှလည်း သားရေ ရရှိကြသည်။ သမင်၊ ဒရယ်၊ ပြောင်၊ သားပိုက်ကောင် စသော တောကောင်တို့၏ သားရေများကို အသုံးချသည့် နည်းတူ မိကျောင်းခေါင်းတို၊ မြေမန်းဟိုင်း၊ ပင်လယ်ဖျံ၊ ဝေလငါး အစရှိသည့် ရေသတ္တဝါတို့၏ သားရေကိုလည်း အသုံးချကြသည်။ များ မကြာမီက ဖွတ်၊ မြွေ၊ ဖား၊ မိကျောင်းခေါင်းရှည်တို့၏ သားရေကိုပင် အလှကုန်ပစ္စည်းများ ပြုလုပ်ရန်အတွက် အသုံးချလာကြသည်။ ကုလားအုပ်သားရေ၊ ဆင်သားရေတို့ကိုလည်း အချို့ တိုင်းပြည်များ၌

အသုံးပြုကြသည်။ ငှက်ကုလားအုပ်၏ သားရေသည်လည်း အသုံးဝင်သည်။ သားရေရရှိသော တိရစ္ဆာန်တို့၏ အမျိုးအမည် အရေအတွက်ထက် သားရေ အမျိုးအစားက ပို၍ များပြားလေသည်။ သားရေကို အစားထိုးရန် ပစ္စည်းဟူ၍ ရှာဖွေ မတွေ့ရသေးချေ။

တိရစ္ဆာန်၏ ကိုယ်မှ သားရေကို ခွာယူပြီးလျှင် ပြီးခြင်း ကျွန်ုပ်တို့ အသုံးချနိုင်ကြသည် မဟုတ်ချေ။ မပြုပြင်ရသေးသော သားရေပြားများကို သားရေစိမ်းဟု ခေါ်သည်။ ထို့ကြောင့် သားရေစိမ်းများ ပုပ်ပျက် ယိုယွင်းမသွားစေရန်နှင့် အလိုရှိသလို အသုံးချနိုင်ရန် အဆင့်ဆင့် ပြုပြင်ပေးရသည်။ ယင်းကဲ့သို့ သားရေစိမ်းကို ပြုပြင်ပေးခြင်းကို သားရေနယ်သည်ဟု ခေါ်ကြသည်။

သားရေနယ်သည့်အတတ်ကို လူတို့သည် အလွန်ရှေးကျသောခေတ်မှစ၍ တတ်မြောက်ခဲ့ကြ၏။ ရှေး အီဂျစ်ခေတ်ကတည်းကပင် သားရေကို ကောင်းစွာ အသုံးချတတ်ပြီး ဖြစ်သည်။ လွန်ခဲ့သည့်နှစ်ပေါင်း ၃၀၀ ခန့်က ပြုလုပ်ထားသော သားရေကို ယခုတိုင် ကောင်းမွန်စွာ တွေ့ရှိကြရသေးသည်။ ရှေးခေတ်လူတို့သည် တိရစ္ဆာန်တို့၏ သားရေကို နယ်ရာ၌ မူလပါရှိသော အမွေးအမှင်တို့ကို ပယ်မပစ်ပဲ တဖက်သတ်သတ်ကိုသာ ပြုပြင်၍ ဝတ်ဆင်ရန် သုံးစွဲကြသည်ဟု ဆိုရချေမည်။ အမွေးအမှင်ပါသော သားရေမှာ ပို၍နွေးမည်ဖြစ်၏။ သို့ရာတွင် အမွေးအမှင်တို့ကို ပယ်ပစ်ပြီး သားရေကိုလည်း ဖိနပ်ကဲ့သို့ အခြားအသုံးအဆောင်များ ပြုလုပ်နိုင်ကြောင်း သိရှိလာသည့် အလျောက် သားရေနယ်သည့် လုပ်ငန်းမှာ တဆင့်တက်လာလေသည်။

သားရေနယ်နည်း အမျိုးမျိုးကိုလည်း စမ်းသပ်တွေ့ရှိလာကြပြန်ရာ ယခု အချိန်အခါတွင် သားရေကြမ်း၊ သားရေနု၊ သားရေပျော့ အစရှိသည့် အစားစားတို့ကိုပြုပြင်နိုင်စွမ်း ရှိကြပြီ ဖြစ်သည်။ သို့သော် အခြား ကုန်ချောပစ္စည်းများ ပြုလုပ်ရာ၌ အဖက်ဖက်တွင် တိုးတက်လျက် ရှိသလောက် သားရေနယ်သည့် နည်းစံနစ်မှာမူ ရှေးခေတ်အီဂျစ်လူမျိုးတို့ တီထွင်ထားခဲ့သော နည်းနိသျှထက် လွန်ကဲ၍ စွမ်းဆောင်နိုင်ခြင်း မရှိကြသေးချေ။

သားရေ လုပ်ငန်းတွင် ပဌမဆုံး အလုပ်မှာ တိရစ္ဆာန်၏ ကိုယ်မှ သားရေကို နဂိုအတိုင်း မစုတ်မပြတ်စေပဲ ခွာယူခြင်းပင် ဖြစ်၏။ တခါတရံ တိရစ္ဆာန်တို့၏ သားရေထပ် အတွင်းသို့ လေသွင်းပေးခြင်းဖြင့် သားရေ ခွာရလွယ်ကူစေသည်။ ယခုအခါတွင် ခေတ်မှီတန်ဆာပလာတို့ဖြင့် သားရေကို ခွာယူကြသဖြင့် သားရေများကို နဂိုအတိုင်း ရရှိနိုင်ကြသည်။ တခါတရံ သားရေကို အစိမ်းအတိုင်း သားရေနယ်သည့် ဌာနသို့ တင်ပို့ကြသည်။ အကယ်၍ သားရေကို သားရေနယ်ရာ ဌာနသို့ ရုတ်တရက် မပို့ဖြစ်နိုင်လျှင် မပုပ်ပျက်ရအောင် အခြောက်လှန်း၍ ဖြစ်စေ၊ သားရေ၏ အတွင်းဖက်ကို ဆားနယ်၍ဖြစ်စေ ထားရသည်။ သားရေစိမ်း၏အသားဖက်တွင် ကျန်ရှိနေသော အသားနှင့် အရိအရွဲများကို ကုန်စင်အောင်လှီးဖြတ်၍ ရေတကြိမ်ဆေးကြောရသည်။ ရေစစ်သည့်အခါ သားရေစိမ်း၏အတွင်းဖက်ကို ဆားဖြူးပြီးနောက် ဆားပြန့်နှံ့ဝင်စေရန် ခြေထောက်ဖြင့်နာနာနင်းနယ်၍ဆား ထည့်ထားရသည်။ ယင်းသို့ ငါးရက်တကြိမ်ကျ ဆားများဖြင့် ထည့်လျက် သုံးကြိမ်ခန့် ဆားဖြင့် သုတ်လိမ်းပေးပြီးလျှင် သားရေများကို တခုနှင့်တခု ထပ်ထားက တလကျော်ခန့် ကြာရှည်ထားနိုင်သည်။

လူ၏ ကိုယ်ခန္ဓာပေါ်တွင်ရှိသော သားရေတွင် အထပ်သုံးလွှာ ရှိသကဲ့သို့ တိရစ္ဆာန်၏ သားရေ၌လည်း အထပ်သုံးလွှာရှိသည်။ အပြင်ဆုံး အထပ်လွှာနှင့် အတွင်းဆုံး အထပ်လွှာတို့ကို ပယ်ပစ်၍ သားရေစစ်ဖြစ်သော အလယ်ထပ်လွှာကိုသာလျှင် သားရေနယ်ရန် ခွာထုတ်ယူရသည်။

သားရေနယ်သည့် လုပ်ငန်းမစမီ သားရေချပ်တို့ကို ရေစိမ်ရသည်။ လတ်ဆတ်သော သားရေကို ရေထဲ၌တနာရီခန့်စိမ်ရ၍ ဆားနယ်ထားသည့်သားရေကို ရေထဲ၌ ငါးနာရီမှ ခြောက်နာရီအထိ စိမ်၍ ရေကို သုံးလေးကြိမ် လဲကာ သားရေ၌ပေကျံနေသော သွေး ချွဲ အမှိုက်စသည်တို့ ပြောင်စင်သွားအောင်ဆေးပေးရသည်။ သားရေချပ်၏ တဖက်တွင်ရှိသော အဆီမျှင် အကြောမျှင်တို့ကိုငှင်း၊ အခြားတဖက်တွင် ရှိသောအမွေးအမှင်တို့ကိုငှင်း သက်ဆိုင်ရာစက်ကရိယာများဖြင့် သုတ်သင်ဖယ်ရှင်းရသည်။ ထို့နောက် ကော့စတစ်ဆိုဒါ တပေါင်၊သို့မဟုတ် ဆိုဒီယံဆာလဖိုက် နှစ်ပေါင်ကို ရေဂါလံ ၁၀၀ တွင် ဖျော်၍ ဆောင်းရာသီတွင် ၃၆ နာရီ၊နွေရာသီတွင် ၁၂ နာရီမှ ၂၄ နာရီ စိမ်ထားရသည်။ယင်းသို့စိမ်စဉ်အတွင်း သားရေချပ်ကို နှစ်ကြိမ်ခန့်ဆယ်၍ သားရေအတွင်းသားကို ထန်းတုံးပေါ်မှောက်တင်ကာ ဓားကောက်အတုံးနှင့် နာနာခြစ်ပေးရသည်။ ထိုအခါ သားရေသည် ပျော့ပျောင်းလာလေသည်။ထို့နောက် ကျန်နေသော အမွေးများ အဆီများ အစေး အညှော်များကို အရည်ပျော်ကျ ပျောက်ပျက်သွားစေရန် ထုံးရေစိမ်ပေးရသည်။

ထုံးရည်စိမ်လိုက်သောအခါ သားရေသည် ထူပွလာလေသည်။ထုံးရေမှဆယ်ပြီးနောက်း ထုံများ ကျွတ်သွားစေရန်၊ အရည်ပျော်နေသော အစေးအညှော်များထွက်သွားစေရန်၊ အမွေးငုတ်များ အညစ်အကြေးများ ထွက်သွားစေရန်နှင့် ထူပွနေခြင်းမှ ပါးလွှာပျော့ပျောင်းသွားစေရန် လက်တစ်အက်ဆစ်၊ ဗျူတရစ်အက်ဆစ်၊ အက်ဆီတစ် အက်ဆစ်နှင့် ဗောရစ်အက်ဆစ် တမျိုးမျိုးကို သားရေချိန်၏ တစ်ရာခိုင်နှုန်းထည့်၍ ချဉ်ရည်စိမ်ရသည်။ ယင်းကို ဇော့တင်း ဟုခေါ်သည်။ ဖွဲနုချဉ်ရည်နှင့်လည်း ထုံးချွတ်တတ်ကြသေးသည်။

ဖွဲ့နုချဉ်ရည်စိမ်ခြင်းသည် များစွာငွေကုန်သက်သာ၍ ခရီးရောက်သည်။ အက်ဆစ်ဖြင့် ထုံးချွတ်ပြီးနောက် ခိုချေး ခွေးချေးတို့ဖြင့် ထပ်၍ ထုံးချွတ်ရသည်။ ယင်းကို ပျူူးယားရင်းဟု ခေါ်သည်။ ခိုချေး ခွေးချေးချဉ်ရည်၏ သတ္တိသည် ပိုမိုကောင်းသဖြင့် မာကျောသော ဆိတ်သားရေကိုပင် လွယ်ကူစွာ ပျော့ပျောင်းစေသည်။ ရွံရှာဖွယ်ကောင်းသော ခိုချေး ခွေးချေးတို့အစား သိပ္ပံဆရာတို့ တီထွင်ထားသော အိုရိုပွန်း၊ ပင်ကရီယော၊ အင်ဇိုး၊ ပျူူးယားရင်း၊ ပါးရိုလီ စသော ဓာတ်ချဉ်ရည်တို့ဖြင့်လည်း စိမ်ကြသည်။

ယင်းသို့အထပ်ထပ် ချေးချွတ်ပျော့ပျောင်းအောင်လုပ်ပြီးမှ သားရေနယ်ရသည်။ သားရေကို တစုံတရာ ပစ္စည်းမပြုလုပ်မီ နယ်ရသည့်ရည်ရွယ်ချက်မှာ ထိုသားရေကို ပုပ်ပျက်မသွားစေရန်နှင့် ပျော့ပျောင်း၍ ပိုမိုခိုင်ခန့်လာစေရန် ဖြစ်သည်။ ထိုပြင် နယ်ပြီးသား သားရေထဲသို့ ရေအလွယ်တကူနှင့် မဝင်နိုင်ချေ။ သားရေနယ်နည်း အမျိုးမျိုးရှိ၏။ နည်းတမျိုးနှင့်တမျိုး သိုးကသီကာမျှသာ ခြားနားသေသည်။ ယင်းသို့ ပုံသေနည်းတနည်းဘည်းကို မထားပဲ နည်းအမျိုးမျိုး ကွဲပြားနေရခြင်းမှာ လိုချင်သော သားရေ အမျိုးအစားကို လိုက်၍ ထိုသားရေမျိုး ရရှိရန်အတွက် သင့်လျော်သည့် သားရေနယ်နည်းကို အသုံးပြုရခြင်းကြောင့်ပင် ဖြစ်လေသည်။

သားရေ နယ်နည်း အမျိုးမျိုး ရှိသည့်အနက် ထင်ရှားသော နည်းသုံးနည်းတို့ကား သစ်ခေါက်ရည်ဖြင့်သားရေနယ်နည်း တမျိုး၊ ကရိုမီယမ် သတ္တုကဲ့သို့ သတ္တုတမျိုးမျိုးဖြင့် သားရေနယ်နည်း တမျိုးနှင့် ငါးဆီ၊ သို့မဟုတ် အမဲဆီတို့ဖြင့် သားရေနယ်နည်းတမျိုးတို့ ဖြစ်လေသည်။ ဤသားရေနယ်နည်းသုံးမျိုးတို့တွင် သစ်ခေါက်၊ သစ်သီး၊သစ်စေ့၊ သစ်ရွက်တို့ဖြင့် ပြုပြင်သည့်နည်းမှာ အလွန်ရှေးကျသော သမားရိုးကျနည်းပင် ဖြစ်သည်ဟု ဆိုရသော်လည်း အထူးသဖြင့် ထူထဲလှသော သားရေချပ်များအတွက် ဤနည်းကို ယခုထက်တိုင် အသုံးများလျက်ရှိကြ၏။

သားရေနယ်ရန် အသုံးချနိုင်သော သစ်ပင်ကြီး၊ သစ်ပင်ငယ်ပေါင်း မြောက်မြားစွာ ရှိသည်။ ဝက်သစ်ချခေါက်နှင့် ဟင်းမလုပ်ပင်၏ အခေါက်တို့ကို ထူထဲသော သားရေများနယ်ရာ၌ အသုံးများသည်။ မိုးမခပင်၊ သစ်အယ်ပင်နှင့် ဗတ်ချခေါ် ဗုဇပတ်ပင် တမျိုး၏ သစ်ခေါက်များကိုလည်း



စက်ကရိယာများဖြင့် သားရေအမျိုးမျိုးအစားစားတို့ကို ရရှိအောင် ပြုပြင်ပေးရသည်။

အသုံးချနိုင်သည်။ ထိုပြင် သားရေနယ်ရန် အသုံးဝင်သော သစ်ပင်များကို မလ္လာယုကျွန်းဆွယ်၊ ဩစတြေးလီးယား တိုက်၊ အိန္ဒိယနိုင်ငံနှင့် တောင်အမေရိက တိုက်များတွင် တွေ့ရှိရလေသည်။ အချို့သစ်ပင်များမှ အခေါက်ကို သော်၎င်း၊ အချို့အပင်များမှ အသီးတောင့်ကိုသော်၎င်း၊ အချို့အပင်များမှ အရွက်ကိုသော်၎င်း သားရေနယ်ရာ၌ အသုံးချကြသည်။ ဝက်သစ်ချပင်များတွင် နကျယ်ကောင် တမျိုးကြောင့် ကျည်းပေါင်းများ တက်နေတတ်ရာ ထိုကျည်းပေါင်းများကိုလည်း သားရေနယ်ရာ၌ အသုံးချနိုင်သည်။

မြန်မာနိုင်ငံတွင် အသီးများမှ ဖန်ခါးသီးနှင့် စွန်လက်သည်းများကို၎င်း၊ အခေါက်များမှ လမု၊ လမဲ့၊ မဒမ၊ ငုစပ်၊ ပိတ်သင်းကတ်နှင့် ထနောင်းခေါက်များကို၎င်း သားရေနယ်ရာတွင် အသုံးပြုကြ၏။ သို့ရာတွင် ဓာတုဗေဒနည်းအရ ဖော်စပ်ထားသော သားရေနယ်ဆေးများနှင့် ဓာတ်သတ္တုတမျိုးမျိုးဖြင့် သားရေနယ်နည်းများ ခေတ်စားလာသည့်အလျောက် သစ်ပင်များမှရသော ဖန်ရည်ဖြင့် သားရေနယ်နည်းမှာ တဖြည်းဖြည်းနှင့် အသုံးနည်း၍ လာပေသည်။

သစ်ပင်တို့မှရသော ဖန်ရည်ဖြင့် သားရေနယ်သည့်အခါ ရက်ပေါင်း ၉၀ မှ ၁၀၀ အထိ ကြာသည်။ ကရိုး ဓာတ်ဆေးရည်၊ သို့မဟုတ် အခြား ဓာတ်ဆေးရည်တို့ဖြင့် သားရေနယ်လျှင် ရက်ပေါင်း ၃၀ မျှနှင့် ပြီးမြောက်နိုင်လေသည်။ သစ်ပင်တို့မှ ရသော ဖန်ရည်ဖြင့် သားရေ နယ်နည်းမှာ ထိုဖန်ရည်ထည့်လောင်းထားသော ရေစည်ကြီးများထဲတွင် သားရေချပ်များကို စိမ်ထားရခြင်း ဖြစ်သည်။ ဖန်ရည်ပျော့ပျော့စပ်ထားသော ရေစည်တွင် အစပြု၍ တခုထက်တခု ဖန်ရည်ဓာတ်ပိုပြင်းသောရေစည်ကြီးများသို့ သားရေချပ်များကို နေ့စဉ် ပြောင်းပေးရသည်။ ထိုရေစည်များထဲတွင်ရှိသော သားရေချပ်များကို မကြာခဏ လှန်လှော မွှေနှောက် ပေးရသည့်အပြင် တခါတရံ ရေစည်ထဲမှ ထုတ်၍ ရေစစ်ထားရသည်။ နောက်ဆုံးရေစည်တွင် ဖန်ရည်ဓာတ်အပြင်းဆုံး စပ်ထား၍ သားရေချပ်များကို အတန်ကြာကြာ စိမ်ထားရသည်။ ဤတွင် သားရေ နယ်သည့်ကိစ္စပြီးဆုံးခြင်းသို့ ရောက်လေသည်။

ကရိုးဓာတ်ဆေးရည်၊ သို့မဟုတ် အခြား ဓာတ်ဆေးရည်တို့ဖြင့် သားရေ နယ်သည့်နည်းကို ၁၈၈၄ ခုနှစ်တွင် အမေရိကန် လူမျိုးတဦးက တီထွင်ခဲ့လေသည်။ ဤနည်းကို အသုံးပြုရာ၌ ဓာတ်သတ္တုအမျိုးမျိုးကို အသုံးချနိုင်သည်။ ယခင်အခါက ကျောက်ချဉ်ကို အသုံးများသော်လည်း ယခုအခါ ကရိုမီယမ်ဓာတ်ဆားကို ကျောက်ချဉ်အစား အသုံးချလျက် ရှိကြသည်။ ဤဓာတ်သတ္တုဖြင့် သားရေနယ်နည်းကို သားရေပါး၊ သားရေပေါ့များအတွက် များသောအားဖြင့် အသုံးပြုသည်။ ထူထဲသော သားရေတို့ကိုလည်း ဤသားရေနယ်နည်းဖြင့် ပြုပြင်ပေးလျှင် ပိုမိုခိုင်ခံ့လာမည်ဖြစ်သည်။ ဤနည်းအရ ကရိုမီယမ်ဓာတ်ဆား ပျော်ဝင်ရည်တွင် သားရေချပ်များကို စိမ်ထားရလေသည်။ ဓာတ်သတ္တုနည်းဖြင့် နယ်ထားသော သားရေကို ကရိုးသားရေဟုခေါ်သည်။ သစ်ပင်တို့မှရသော ဖန်ရည်ဖြင့် ပြုပြင်ထားသည့် သားရေထက် ကရိုး သားရေသည် ပိုမို၍ ခိုင်ခံ့သည်။

ဆီဖြင့် သားရေနယ်နည်းမှာ ကရိုမီယမ် ဓာတ်သတ္တုဖြင့် သားရေနယ်နည်းထက်ရှေးကျ၍များသောအားဖြင့်ငါးကြီးဆီမျိုးကို အသုံးပြုသည်။ ရှမွားသားရေ၊ လက်အိတ် သားရေကဲ့သို့ သားရေနုများအတွက် ဆီဖြင့် သားရေနယ်နည်းကို အသုံးပြုသည်။ ဤနည်းအရ သားရေသားထဲသို့ ဆီစိမ့်ဝင်အောင် ပြုလုပ်ပေးရသည်။ သားရေသည် ဆီဝလာသဖြင့် နူးညံ့ပျော့ပျောင်းလာလေသည်။

သားရေကို နယ်ပြီးရုံမျှနှင့် လိုရာ ဝတ္ထုပစ္စည်းများကို လုပ်နိုင်ပြီဟု မဆိုသာသေးချေ။ နယ်ပြီးသော သားရေများကို တဖန် အခြောက်လှန်းရပြန်သဖြင့် သားရေချပ်များသည် တောင့်မာ၍ ကြမ်းထန်း ခက်ထရော် ရှိလေသည်။ ထို့ကြောင့် သားရေများ နူးညံ့ ပျော့ပျောင်းလာစေရန် အမဲဆီကဲ့သို့ ဆီမျိုးဖြင့် ပွတ်တိုက်ပေးရသည်။ ထိုနောက် သားရေ ပျော့ပျောင်း ပြန့်ပြူးသွားစေရန်သားရေဖြန့်စက်၊ သားရေ ဖြန့်ခုံ စသည်တို့ဖြင့် ဖြန့်ပေးရသည်။ ထိုနောက် သားရေကို လိုသည့်အရောင် ရရှိစေရန် ဆေးဆိုးပေးရသည်။ တွေ့မြင်နေကျဖြစ်သော အနက်ရောင်၊ သို့မဟုတ် အညိုရောင်အပြင် အဖြူ၊ အနီ၊ အပြာ စသောရောင်စုံ ဆေးများဖြင့်လည်း သားရေကို အရောင်ဆိုးပေးနိုင်သည်။

သားရေကို အရောင်ဆိုးသည့် အတတ်မှာ အနုပညာတရပ်ပင် ဖြစ်လေသည်။ ထို့ကြောင့် သားရေကို ဆေးဆိုးသည့်လုပ်ငန်းတွင် ကျွမ်းကျင်မှုလိုသည်။ သို့မှ သားရေပေါ်တွင် ဆေးရောင် ညီညာစွာ ရှိနေပေမည်။ သားရေ တမျိုးနှင့် တမျိုး ဆေးရောင်တင်သည့် နည်းစံနစ်ချင်း မတူကြချေ။ သားရေချပ် တချပ်တည်း၌ပင် အရောင်ဆိုးသည့်အခါ ကွက်ကျားကျား ရှိနေတတ်သည်။ ထိုနောက် သားရေကို အသုံးချလိုသည့် အလိုက် ထပ်မံ၍ နည်းအမျိုးမျိုးဖြင့် ပြုပြင်ပေးရသည်။

ဖိနပ်အောက်ခံ သားရေနှင့် တိရစ္ဆာန်တို့အတွက်ကကြိုးတန်ဆာ သားရေမျိုးကို လိုလျှင် ထိုသားရေမှာ မာ၍ ခိုင်ခံ့ရမည် ဖြစ်သည့်အလျောက် ဖိများ တပ်ဆင်ထားသော စက်ကရိယာတွင် ကျပ်ကျပ် ဖိနှိပ်ပေးရသည်။ သားရေပါး သားရေနုများကို လိုလျှင် သားရေချပ်မှ ပါးလွှာသော အထပ်များကို ခွာယူ၍ ပျော့ပျောင်းလာအောင်

အလိုရှိသည့်အတိုင်း ပြုပြင်ပေးရသည်။ ဖိနပ်များ၏အပေါ် လွှာကဲ့သို့ အရောင် တောက်ပြောင်နေသည့် သားရေမျိုးကို လိုသည့်အခါ၌ သားရေ၏ အပြင်ထပ်ကို အရောင်တင်၍ မှန်ဒလိမ့်တုံးများဖြင့် ဖိနှိပ်ပေးခြင်း အားဖြင့် သားရေ ရောင်မှာ တောက်ပြောင်လာပေမည်။ အကယ်၍ သားရေ ရိုးရိုးပေါ်တွင် မိကျောင်းရေ ကွက်မျိုးကိုဖြစ်စေ၊ မြွေရေ ကွက်မျိုးကိုဖြစ်စေ အကွက်တုများ ဖော်မည် ဆိုလျှင် လည်း ဒလိမ့်တုံးများဖြင့် ဖော်ပေးနိုင်သည်။ ထို့ကြောင့် ခေတ်မှီ စက်ကိရိယာများဖြင့် သားရေ အမျိုးမျိုး အစား စားတို့ကို ရရှိအောင် ပြုပြင်ပေးနိုင်သည်။

သားရေများ၏ ငါးပုံလေးပုံခန့်ကို ဖိနပ်ချုပ်ရန်အတွက် အသုံးပြုကြသည်။ ကျန် သားရေတို့ကို ထိုင်ဖုံ၊ အဖုံးများ၊ စက်ရုံများတွင်ရှိသော ဘီးများတွင် တပ်ဆင်ရန် သားရေ ကြိုး၊ ကကြိုးတန်ဆာ၊ သားရေသေတ္တာ၊ သားရေဝတ် သား ရေထည်၊ စာအုပ်ဖုံး အစရှိသည်များကို ပြုလုပ်ရန် အသုံးပြု ကြသည်။ နွားကြီး သားရေနှင့် နွားကလေး သားရေကို များသောအားဖြင့် ဖိနပ်ချုပ်ရာ၌ အသုံးချသည်။ နွား သားရေမှာ အထူးသဖြင့် ခိုင်ခံ့သော သားရေမျိုး ဖြစ်သည်။

သိုးနှင့် ဆိတ်များမှရရှိသော သားရေမှာ သားရေနုမျိုး ဖြစ်သဖြင့် မိန်းမစီးဖိနပ်၊ ကလေးစီးဖိနပ်နှင့် လက်အိတ်များ ချုပ်လုပ်ရန်အတွက် အထူး သင့်လျော်သည်။ လူကြီးစီး ဖိနပ် အပေါ်လွှာများကိုလည်း သိုးသားရေ၊ သို့မဟုတ်ဆိတ် သားရေတို့ဖြင့် ချုပ်လုပ်တတ်ကြသည်။

နွားသားရေတွင်လည်း သားရေ အစားစားရှိ၍ ပြုပြင် ပေးထားပုံခြင်း ကွဲပြားသည့် အလျောက် သားရေ အမည် အမျိုးမျိုး ရှိလေသည်။ ထိုသားရေ အမည်တို့ အနက် ဗောက်စကတ်ခေါ် သားရေမျိုးမှာ နွားကလေး သားရေ ပေါ်တွင် ရိတဂံပုံ ယောင်ယောင် အကွက်များ ဖော်ထား သော သားရေဖြစ်သည်။ ဝက်စကတ် သားရေမှာ ထူထဲ သော နွားကလေး သားရေကို ဖယောင်းဆီ သုတ်လိမ်း ထားခြင်းဖြစ်သည်။ စူအစ်ကတ် ခေါ် နွားကလေး သားရေ မျိုးကို တငါတရံ ဆိတ်သားရေဖြင့် ပြုလုပ်ကြသည်။ ထိုသားရေမှာ သာမန်သားရေကဲ့သို့ ပြောင်ချော၍ မနေပဲ တဖက်၌ အဖုကလေးများကို စက်ဖြင့် ဖော်ထားလေသည်။ ဒါးလကတ်၊ သို့မဟုတ် ဂန်းမက်တဲကတ် ခေါ် သားရေမှာ အရောင်ပြောင်လက်ခြင်းမရှိ၊ အရောင်ထိုင်းသော သားရေ ချောမျိုးဖြစ်သည်။

ရှေးအခါက စပိန်နိုင်ငံတွင်ရှိသော ကော်ဒိုဗာမြို့၌ မြင်း သားရေဖြင့် ချုပ်လုပ်ထားသော ဖိနပ်များမှာ ကျော် ကြားသဖြင့် မြင်းသားရေကို ကော်ဒိုဗန် သားရေဟု အမည် ပေးထားကြသည်။ မြင်းသားရေမှာ အလွန် ခိုင်ခံ့၍ ရေ လုံသည်။ ယခု အချိန်အခါတွင် နွားသားရေဖြင့် ကော်ဒိုဗန် သားရေတုများ ပြုလုပ်လျက်ရှိကြသည်။

ရုရှားသားရေမှာ မူလက အဲလပတောင်ပေါ်တွင် ကျက် စားသော ရုရှားဆိတ်၏ သားရေပင် ဖြစ်သော်လည်း ယခု အခါ၌ ထိုရုရှားဆိတ်၏ သားရေစစ်စစ်ကို ရခဲသည်ဖြစ်ရာ သိုးမှ ရရှိသော သားရေကို ရုရှား သားရေနှင့် တူအောင် ပြုပြင်၍ ရုရှားသားရေအဖြစ် ရောင်းချလျက် ရှိကြသည်။ (ရုရှားဆိတ် — လည်းရှု။)

ဗတ်စကင်းခေါ် ဒရယ်သားရေမှာဝါကြန့်ကြန့်၊သို့မဟုတ် ကြက်ဥနှစ်ရောင်ဖြစ်၍ အထည်သားလောက်နီးနီး ပျော့ ပျောင်း နူးညံ့သဖြင့် လက်အိတ်များချုပ်လုပ်ရာ၌ အသုံး များသည်။ သို့သော် ဒရယ်သားရေစစ်စစ်ကို ယခုအခါတွင် လိုသလောက် မရနိုင်သဖြင့် နွားကလေးသားရေနှင့် ဆိတ် သားရေတို့ကို ဒရယ်သားရေနှင့် တူအောင် ပြုပြင်ကာ အစားထိုး၍ သုံးစွဲလျက်ရှိကြသည်။

သားရေပြောင်ခေါ် အရောင်တောက်နေသည့် သားရေ မျိုးမှာ အရောင်တင်ဆေး အထပ်ထပ် သုပ်လိမ်းထားသော သားရေနုဖြစ်၏။ ဤကဲ့သို့ အရောင်တင်ဆေး အထပ်ထပ် သုတ်လိမ်းရသဖြင့် သားရေပြောင်သည် အခြောက်လွန်၍ သာမန် သားရေကဲ့သို့ ဆွဲသာ ဆန့်သာ မရှိနိုင်တော့ချေ။ ဆေးခိုင်နေစေရန် နောက်ဆုံး၌ သားရေကို ပေါင်းရသည်။

မိုရော့ကိုနယ်ရှိ ဆိတ်မှရသော မိုရော့ကို သားရေကို စာအုပ်ဖုံးများ၌ သုံးသည်။ မိုရော့ကို သားရေအချောစား မျိုး ဖြစ်သည်။ သို့သော် အခြား ဆိတ်သားရေများကို မိုရော့ကို သားရေတုများ ပြုလုပ်ကာ သုံးစွဲလျက်ရှိ ကြသည်။

ရုရှနိုင်ငံတွင် နွားကလေး သားရေဖြင့် ပြုလုပ်ထား သော သားရေအကောင်းစားတမျိုး ရှိ၏။ ထိုသားရေကို ရပ်ရှင်း သားရေဟု ခေါ်သည်။ ထို ရပ်ရှင်းသားရေကို ဗုဇပတ်ပင်မှရသော ဆီဖြင့် ပြုပြင်ထားသဖြင့် ထူးခြားသော အနံ့ထွက်နေသည့်ပြင် အနီရောင်ရင့် ဆိုးထားသည်ဖြစ်ရာ လှပသော သားရေမျိုးဖြစ်ပေသည်။ သို့သော် ယခုအခါ၌ ဥရောပတိုက်တခွင်နှင့် အမေရိကတိုက်တွင် ထူထဲသော သား ရေ အမျိုးမျိုးဖြင့် အညိုရောင်၊ ဇော်ဂျီရောင်နှင့် အနက် ရောင် ရပ်ရှင်း သားရေတို့ကို ပြုလုပ်လျက် ရှိကြသည်။ ရပ်ရှင်းသားရေသည် ခိုင်ခံ့၍ ရုတ်တရက် ရေမဝင်နိုင်သည့် အပြင် ပိုးမွှားများ မဖျက်ဆီးနိုင်သဖြင့် မိုရော့ကို သားရေ ကဲ့သို့ စာအုပ်ဖုံးများအတွက် အသုံးချကြသည်။

ဖွတ်သားရေ၊မြွေသားရေနှင့် မိကျောင်းခေါင်းရှည်သား ရေစသော သတ္တဝါတို့၏ သားရေများဖြင့် လုပသော သား ရေ သေတ္တာများ၊ မိန်းမစီး ဖိနပ်များကို ချုပ်လုပ် သုံးစွဲ ကြသည်။ ခရီးဆောင် သားရေသေတ္တာများကို များသော

အားဖြင့် မိကျောင်းခေါင်းရှည် သားရေဖြင့် ပြုလုပ်တတ်ကြသည်။ ဖွတ်နှင့် မြွေတို့၏ သားရေကိုမူ မိန်းမစီးဖိနပ်များအတွက် အသုံးချကြသည်။ ပိုက်ဆံအိတ်၊ လက်ဆွဲအိတ်နှင့် အခြားအသုံးအဆောင်များကို ဆန်းဆန်းပြားပြား သားရေများဖြင့် လုပ်တတ်ကြသည်။ ထိုဆန်းပြားသော သားရေများတွင် ပင်လယ်ဖျံသားရေ၊ ဖားသားရေနှင့် ငှက် ကုလားအုပ် သားရေတို့မှာ အသုံးများသဖြင့် ထင်ရှားသည်။ သို့ရာတွင် သာမန် နွားသားရေ၊ ဆိတ်သားရေ စသည်တို့တွင် အထက် ဖော်ပြပါ ဆန်းပြားသော တိရစ္ဆာန်တို့၏ အကွက်အစက်တို့ကို စက်ကရိယာတို့ဖြင့် ဖော်နိုင်ကြသဖြင့် ထို တိရစ္ဆာန်သားရေများကို တု၍ အဆန်းထွင်ထားသော သားရေများကိုလည်း ပြုလုပ်သုံးစွဲလျက်ရှိသည်။

သားရေသည် တနေ့တခြားလူသုံးများလာသောပစ္စည်းတရပ် ဖြစ်သည့်အလျောက် သားရေဈေးမှာလည်း ကြီးမြင့်၍သာ လာတော့သည်။ ယင်းသို့ဖြစ်ခြင်းကြောင့် သားရေကို အစားထိုးရန် သားရေတုများကို တီထွင်၍ ထားကြလေသည်။ သားရေတုများမှာ သားရေစစ်နှင့် ခွဲခြား၍ မရနိုင်လောက်အောင် အဖက်ဖက်တွင် တူညီသည်ဟု ဆိုရစေကာမူ သားရေတုသည် သားရေစစ်ကဲ့သို့ မခိုင်ခံ့ချေ။ သားရေတုများကို ခိုင်ခံ့သောအထည်များနှင့် ကိုလိုဒီယန်ကော့တွန်းခေါ် ဖော်စပ်ထားသောအရည်ဖြင့် ပေါင်းဖက်၍ ပြုလုပ်ကြသည်။ သို့ရာတွင် အထူးသဖြင့် ဖိနပ်ချုပ်လုပ်ငန်း၌ သားရေစစ်ကို အစားထိုး၍ရသော ပစ္စည်းဟူ၍ ရှာမတွေ့သေးချေ။

**သားလောင်းပညာ။** ။အင်ဗရီယိုလိုဂျီ — ရှု။

**သိကြား။** ။မာဂဓဘာသာတွင် သက္က၊ သက္ကတဘာသာတွင် သကြ ဟူ၍ ခေါ်သည်။ သက္ကတ ဘာသာ သကြဟူသော ပုဒ်တွင် သဋ္ဌမီသော 'အ' သရကို 'ဣ'၊ ကြဋ္ဌ မီသော 'အ' သရကို'အား'သို့ ပြောင်းလဲ၍ မြန်မာဘာသာတွင် သိကြားဟု ခေါ်သည်။ ထိုကြောင့် ဟတ္ထိပါလကိုးခန်းပျို့တွင် —

"သက္က သကြ၊ မာဂဓနှင့်၊ သက္ကတဘာသာ၊ ဝေါဟာအပြား၊ ထိုနှစ်ပါးတွင်၊ 'ဣ' 'အား' အက္ခရာ၊ လွှဲကာလည်းပြု၊ မြန်မာမှုဖြင့်၊ ယခုလူတွင်၊ သိကြားဆင်သည်" ဟု ရှင်မဟာရဋ္ဌသာရ အကျော် စပ်ဆိုတော်မူခဲ့သည်။

အဘိဓာန်ကျမ်းတွင် သက္ကော၊ အသုရာကို အောင်စွမ်းတတ်သောသူ။ ပုရိန္ဒဒေါ၊ အလျှုလက်ဦး ပေးတတ်သောသူ။ ဒေဝရာဇာ၊ နတ်တို့၏မင်း။ ဝဇိရပါဏိ၊ ဝဇိရစိန်လက်၌ ရှိသောသူ။ သုဇမ္ပတိ၊ သုဇာ၏ အရှင်။ သဟဿက္ခော၊ များစွာသော နတ်လူတို့၏ ကြံစည်အောက်မေ့တတ်သော ကိစ္စကို မြင်နိုင်စွမ်းသူ။ မဃဝန္တော၊ များစွာသောနတ်တို့၏ အရှင်။ ဝဇိရာဝုဓော၊ ဝဇိရစိန်လက်နက်ရှိသူ။ ဝါသဝေါ၊ နတ်၌ဖြစ်သော ရတနာ၏အရှင်။ ဒသ သတ နယနော၊ အမြင်မျက်စိ အထောင်ရှိသောသူ။ တိဒိဝါဓိဘူ၊ နှစ်ပြည်နှစ်ထပ်ကို အစိုးရသောသူ။ သုရ နာထော၊ နတ်တို့၏ ကိုးကွယ်ရာ ဖြစ်သောသူ။ ဝဇိရ ဟတ္ထော၊ ဝဇိရစိန်လက်နက်ရှိသောသူ။ ဘူတ ပတိ၊ သတ္တဝါတို့ကို အစိုးရသောသူ။ မဃဝါ၊ ပုဗ္ဗေအပ်သောသူ။ ကောသိယော၊ ကောသိယအနွယ်ဖြစ်သောသူ။ ဣန္ဒော၊ အစိုးရခြင်း စည်းစိမ်ရှိသောသူ။ ဝတြဘူ၊ ဝတ္တမည်သော အသုရာကို နှိမ်နင်းတတ်သောသူ။ပါက သာသနော၊ပါကမည်သော အသုရာကို ဆုံးမတတ်သောသူ။ ဝိဍောဇော၊ တကိုယ်လုံးနှံ့တတ်သော ဩဇာရှိသောသူ ဟူ၍ သိကြား ပရိယာယ် ပုဒ် ၂၀ ပြသည်။

သိကြားမင်း၏ စိုးစံရာဖြစ်သော ပြည်ကား မဟာသုဒဿန အမည်ရှိသော တာဝတိံသာ နတ်ပြည် ဖြစ်၏။ ထိုတာဝတိံသာသည် အရှေ့ အနောက်လည်း ယူဇနာ တသောင်း၊ တောင်နှင့် မြောက်လည်း ယူဇနာတသောင်း ရှိ၏။ မြို့တမျက်နှာ တမျက်နှာလျှင် တံခါးပေါင်း နှစ်ရာ ငါးဆယ်စီ ရှိသောအားဖြင့် တံခါးပေါင်းလည်း တထောင် ရှိ၏။ အရှေ့မျက်နှာ၌ အဝန်းယူဇနာ တသောင်းရှိ၍ ရတနာမျိုးတို့ဖြင့် တန်တိုင်းဝန်းကျင်၌ ရံအပ်သော နန္ဒဝန် ဥယျာဉ်ရှိ၏။ ထိုဥယျာဉ်အတွင်း၌ ကြာဝါးပါးဖြင့် ဖုံးလွှမ်းလျက် ချမ်းကြည် စိမ်းမြစွာသော မဟာနန္ဒာ၊ စူဠနန္ဒာဟူသည့် ရေကန် နှစ်ကန်ရှိ၏။ တောင်မျက်နှာ၌ ရတနာမျိုးတို့ဖြင့် ပြီးသောတန်တိုင်း မုခ်တံခါးတို့ဖြင့် ဝန်းကျင် ရံအပ်သော ဖာရုသကာ ဥယျာဉ်ရှိ၍ အဝန်းယူဇနာ ခုနစ်ရာ ရှိသည်။ ထိုဥယျာဉ်အတွင်း၌ ဘဒ္ဒါ၊ သုဘဒ္ဒါဟူ၍ရေကန်နှစ်ကန်ရှိ၏။ အနောက်မျက်နှာ၌ ရတနာမျိုးဖြင့် ပြီးသော တန်တိုင်း မုခ်ဘံခါးဖြင့် ဝန်းကျင်ရံအပ်သော စိတ္တလတာဥယျာဉ် ရှိ၍ အဝန်း ယူဇနာ ငါးရာရှိသည်။ ထိုဥယျာဉ်တွင်း၌ ဝိစိတ္တာ၊ စူဠဝိစိတ္တာဟူ၍ ရေကန်နှစ်ကန် ရှိ၍ အာသာဝတီနွယ်ပင် ပေါက်သည်။ မြောက်မျက်နှာ၌ ရတနာတို့ဖြင့် အတိ ပြီးသော တန်တိုင်းမုခ်တံခါးဖြင့် ဝန်းကျင် ရံအပ်သော မိဿကဥယျာဉ်ကား အဝန်းယူဇနာ ငါးရာရှိ၍ ထိုဥယျာဉ်တွင်း၌ ဓမ္မာ၊ သုဓမ္မာဟူ၍ ရေကန်နှစ်ကန် ရှိသည်။ မြို့၏ အရှေ့မြောက်ဆောင့်၌လည်း မဟာဝန်ဥယျာဉ်ရှိ၍ အဝန်းယူဇနာ ခုနစ်ရာ ရှိ၏။ ထိုဥယျာဉ်တွင်း၌ သိကြားမင်းစံရာ ရတနာ ခုနစ်ပါးတို့ဖြင့် ပြီးသော ပြာသာဒ်ကွန်း ဘုံဗိမာန်ကား တသောင်းချလောက် အရေအတွက်ရှိ၏။

တာဝတိံသာပြည်၏အရှေ့မြောက် ပင်လယ်ကသစ်ပင်၏ အနီး၌ နတ်အပေါင်းတို့ ညီလာခံရာ သုဓမ္မာသဘင် ရှိ၏။

ထိုသုဓမ္မာသဘင်ကား အလျား အနံအားဖြင့် ယူဇနာ သုံးရာ၊ အဝန်း ယူဇနာ ကိုးရာ၊ အမြင့်ယူဇနာ ငါးရာရှိ၏။ သုဓမ္မာသဘင်၏ မြေပြင်သည် ဖလ်ဖြင့်ပြီး၍ တိုင် အခြင် ထုတ် လျှောက် စသည်တို့ကား ကိုးပါးသော ရတနာတို့ဖြင့် ခြယ်လယ်စီမံ ကံလျှင် အကြောင်းပြု၍ ဥတုသမုဋ္ဌာန် နတ်မလုပ်ပဲ ပြီးစေအပ်၏။ ထိုသုဓမ္မာသဘင်အနီးရှိ ပင်လယ်ကသစ်ပင်ကား အမြင့် အချင်း ယူဇနာတရာရှိ၏။ လူတို့၏ အရေအတွက် အနှစ်တရာတိုင်မှ တကြိမ်ပွင့်၍ ပင်လယ်ကသစ်ပွင့်၏ အရောင်အဝါကား ကသစ်ပင် ပတ်ဝန်းကျင် ယူဇနာတရာတိုင်တိုင် ထွက်၍ ပျံ့နှံ့၏။ မွှေးသောအနံ့သည် အကြေသို့ ယူဇနာတရာတိုင်တိုင် လှိုင်၏။

သိကြားမင်းသည် ထိုသုဓမ္မာသဘင်စရပ်၌ အချိန်အခါ ရောက်၍ နတ်တို့ အစည်းအဝေး ပြုလိုလတ်သော် ဝေဇယန္တာပြာသာဒ်နန်း၌ နေလျက် ဝိဇယုတ္တရ မည်သော ခရုသင်းကို မှုတ်၏။ ထိုခရုသင်းသည် အတောင်နှစ်ရာခန့် ပမာဏ ရှိ၍ သိကြားမင်း မှုတ်သော ခရုသင်း၏ အသံသည်ကား ယူဇနာ တသောင်းကျယ်သော တာဝတိံသာ နတ်ပြည်အလုံးကို နှံ့လျက် လူတို့ အရေအတွက်အားဖြင့် လေးလတိုင်မှ အသံစဲ၏။ သိကြားမင်း ထိုသဘင်သို့ ထွက်စံရာတွင် စီးတော်မူသောဆင်ကား ဧရာဝဏ်ဆင်မည်၏။

ထိုသုဓမ္မာသဘင်အစည်းအဝေး၌ ရံခါရံခါလည်း တရားဟောတတ်သော နတ်တို့ကို တရားဟော ပလ္လင်ထက်သို့ တက်၍ ဟောစေ၏။ ရံခါရံခါလည်း သိကြားမင်းကိုယ်တိုင် ဟော၏။ ရံခါရံခါလည်း သနင်္ကုမာရမည်သော ဗြဟ္မာမင်းသည် နတ်အစည်းအဝေးသို့ လာလတ်ပြီးသော် ပုဂ္ဂိုလ်ခင်မှ တရားမင်သည် ဖြစ်၍ နတ်အပေါင်းတို့ မြင်ချင် ရှုချင် ချစ်မြတ်နိုးချင် ရှိသော ပဉ္စသိခနတ်သား၏အသွင် ဖန်ဆင်းလျက် တရားဟော၏။ ထိုနတ်တို့အစည်းအဝေးကား လူတို့၏ အရေအတွက်အားဖြင့် လေးလတိုင်မှ ပြီး၏။ ထိုသုဓမ္မာသဘင်၊ ပင်လယ်ကသစ်ပင်၊ ပဏ္ဍုကမ္ဗလာကျောက်ဖျာတို့ကား မြို့၏အရှေ့မြောက်ပုဏ္ဍရီကဉယျာဉ်၌တည်ရှိလေသည်။

တာဝတိံသာပြည်၏ အလယ်၌ သိကြားမင်း စံရာ ဝေဇယန္တာ နန်းပြာသာဒ်သည် အမြင့်ယူဇနာခုနစ်ရာရှိ၏။ ထိုပြာသာဒ်ကို ခြံရံ၍ ပတ်ဝန်းကျင် အောင်လံ တန်ခွန်ကြီးတို့ဖြင့် အမျှားအပြား စိုက်ဆောက်ထား၏။ ထိုအလံတို့၏ အမြင့်ကား ယူဇနာသုံးရာမြင့်၏။ ရဲရဲညီးသော ရွှေအလံတိုင်၌ ပတ္တမြားညို၊ မြ၊ နီလာအလံရွက်တို့ရှိ၏။ မြ၊ နီလာ၊ ပတ္တမြား အလံတိုင်၌ ရွှေဖြင့်ပြီးသော တန်ခွန်ရွက်တို့ ရှိ၏။ သန္တာ အလံတိုင်၌ ပုလဲ အလံရွက်တို့ ရှိ၏။ ပုလဲအလံတိုင်၌ သန္တာ အလံရွက်တို့သည် ဤသို့သော နည်းဖြင့် အသင့် ခြယ်လယ်စီမံ၍ အလုံးစုံသော အလံတိုင်အလံရွက်တို့သည် ရတနာခုနစ်ပါးတို့ဖြင့်ပြီးကုန်၏။

မာတလိနတ်သား အမှူးရှိသော သိကြားမင်း၏ ဝေဇယန္တာ ရထားသည်ကား ရထားဦးရှေ့မှသည် နောက်ဆုံး အဖျားတိုင်အောင် ယူဇနာ တရာ့ငါးဆယ်ရှိရာ ရှေ့ဦးက ရထားအထိ ယူဇနာ ငါးဆယ်၊ အလယ်ရထားအိမ်လည်း ယူဇနာ ငါးဆယ်၊ နောက်စွန်းသည် ယူဇနာငါးဆယ် ဖြစ်သည်။ အနံကား ယူဇနာငါးဆယ်ရှိ၍ အဝန်းအားဖြင့် ယူဇနာလေးရာ ရှိ၏။ ရထားအိမ်၏အလယ်၌ သိကြားမင်း နေရာ ရတနာပလ္လင်ကား တယူဇနာအမြင့်အကျယ်ရှိသည်။ ထိုပလ္လင်၌ စိုက်ဆောက် ဖြန့်မိုးအပ်သော ထီးဖြူအဝန်းကား သုံးယူဇနာ ရှိ၏။ ထိုရထား၏ တခုတည်းသော ထမ်းပိုး၌ အာဇာနည် သိန္ဓောမြင်းပျို တထောင်တို့ကို တပေါင်း တစည်းတည်း ကစေ၏။ ထိုမြင်းတထောင်ကား တိရစ္ဆာန်မြင်း မဟုတ်၊ သိကြားမင်း၏ အမှုတော်ဝန်ကို ထမ်းရွက်သော နတ်သားတို့သည် ကမ္မဇိဒ္ဓိ တန်ခိုး အစွမ်းအားဖြင့် ဖန်ဆင်းအပ်သော မြင်းတို့ ဖြစ်သည်။ ထိုရထား၌ စိုက်ဆောက်အပ်သော အောင်လံတို့ကား ယူဇနာတရာ့ငါးဆယ် မြင့်ကုန်၏။ အလံရွက်တို့သည်လည်း ရတနာ ခုနစ်ပါးတို့ဖြင့် ပြီး၏။ စည်မျိုးငါးပါးဖြင့် တီးမှုတ်အပ်သော အသံတို့ကဲ့သို့ လေခတ်တိုင်း လှုပ်သော အလံရွက်တို့မှ အသံတို့သည် ညံညံငြိမ့်ငြိမ့် နှစ်သိမ့်သာယာ နာ၍ မငြီးနိုင်အောင် ထွက်ကုန်၏။ ထိုမှ တပါး ရထား၌ ဆင်ယင်အပ်သော တန်ဆာတို့သည် အတိုင်းအရှည် ပမာဏမရှိ အထူးအဆန်း တင့်တယ်လေသည်။

# ငြိမ့်ညောင်းသာယာ တေးထံတျာ

**လူတို့ နှစ်သက် မြတ်နိုးဆုံးသော အနုပညာတရပ်၊ သီချင်းဖြစ်ပေါ်လာပုံ၊ အယူဝါဒရေးရာ ပွဲတော်ပသပွဲတော်များသည် တေးဂီတနှင့် မကင်းပုံ၊ ခံစားချက်များကို ဖော်ပြသော ရိုးရာသီချင်း၊ ကြံစည်တီထွင် ရေးစပ်သော သီချင်း၊ အနောက်တိုင်းဂီတနှင့် အရှေ့တိုင်းဂီတ၊ ဂီတ၏ ထက်မြက်သော စွမ်းရည်၊ နိုင်ငံတခု၏ အဆင့်အတန်း၊ လူမျိုး၏ အဆင့်အတန်းကို ဂီတဖြင့် အကဲခတ်ပုံတို့ကို ဖော်ပြထားသည်။**

**သီချင်း (ဂီတ)။** ။သာယာ ငြိမ့်ညောင်းသော အသံတို့သည် နာရီစည်းချက်မှန်မှန် အသံ အနိမ့်အမြင့် ပြေပြစ်စွာဖြင့် ဖြစ်ပေါ်ခြင်းကို ဂီတ ဟု ခေါ်ဆိုကြသည်။ ဂီတသည် အသံကို အကြောင်းပြု၍ ဖြစ်ပေါ်သည်။ လောကတွင် အသံအမျိုးမျိုးတို့သည် သဘာဝအလျှောက် ဖြစ်ပေါ်လျက်ရှိသည်။ မိုးထစ်ချုန်းသံ၊ လေပြင်းမုန်တိုင်းသံ၊ လှိုင်း

တံပိုးသံတို့ကဲ့သို့ ကြောက်ရွံ့ ထိပ်လန့်ဖွယ် အသံတို့လည်း ရှိသည်။ သစ်ရွက်သစ်ခက်တို့အကြား တိုးဝှေ့တိုက်ခတ်သွားသော လေပြေလေညင်းသံ၊ စမ်းရေကျသံ၊ အခေါင်းပေါက်ရှိသောအရာဝတ္ထုတို့ကို လေတိုးသံကဲ့သို့ သာယာကြည်နူးဖွယ်ကောင်းသော အသံတို့လည်း ရှိသည်။ လူနှင့်အခြားသတ္တဝါတို့သည် ဝမ်းသာခြင်း၊ ဝမ်းနည်းခြင်း၊ အမျက်ထွက်ခြင်း အစရှိသဖြင့် စိတ်ထိခိုက် လှုပ်ရှားမှု ရှိသည့်အခါ အော်ဟစ်ခြင်း၊ ငိုကြွေးခြင်း၊ မြည်တမ်းခြင်း စသော အသံမျိုးကို ပြုကြသည်။ သတ္တဝါတို့တွင် လူသည် စိတ်ကူးဉာဏ်စွမ်း အရှိဆုံးဖြစ်သည်။ လူတို့သည် လှပသော အရာများနှင့် သာယာသော အသံများကို နှစ်သက်သည်။ ထိုအရာများကို ထပ်တလဲလဲ ကြားလိုမြင်လိုသောဆန္ဒ ရှိကြသည်။ လောကသဘာဝ၏ အလှနှင့် သာယာသော အသံတို့သည် လူတို့အလိုရှိတိုင်း ဖြစ်နေသည် မဟုတ်ရကား၊ ထိုအရာများကို မိမိတို့ အလိုရှိတိုင်း မြင်နိုင် ကြားနိုင်လေအောင် လူတို့ဖန်တီး တီထွင်ကြလေသည်။

ထိုကြောင့် သာယာနာပျော်ဘွယ်ရှိသော အသံတို့ကို တေးဂီတ၊ သို့မဟုတ် သီချင်း ဖြစ်အောင် လူတို့ သီကုံးလာကြသည်။ စာရေးစာဖတ်အတတ် မပေါ်မီကပင် ဂီတသည် ပညာတရပ်အနေဖြင့် ရှိနှင့်နေပြီဟု ယူဆကြသည်။ သာယာသော အသံတို့ အနိမ့်အမြင့် ပြေပြစ်စွာ ဖြစ်ပေါ်ပြီးလျှင် စည်းဝါး မှန်ကန်စေရန် လက်ခုတ်တီး၍၎င်း၊ ဖနောင့်ဆောင့်၍၎င်း အချက်ပေးကြရာမှ သီဆို ကျူးရင့်မှုနှင့် တွဲဖက်၍ တီးမှုတ်နိုင်သော တူရိယာ ပစ္စည်းများကိုလည်း တီထွင် လာကြသည်။ သီဆို တီးမှုတ်မှုနှင့် အတူ ကခုန်ခြင်းကိုလည်း ပြုလာကြလေသည်။

ကမ္ဘာ့ လူမျိုးတိုင်းတွင် ယဉ်ကျေးသည် ဖြစ်စေ၊ မယဉ်ကျေးသည် ဖြစ်စေ သီဆိုတီးမှုတ် ကခုန်မှု အတတ်သည် ရှေးပဝေဏီကပင် ရှိခဲ့ကြသည်သာ ဖြစ်သည်။ တေးဂီတပေါ်ဦးစခေတ်က သီချင်းများသည် ယခု လူရိုင်းများ၏ သီချင်းမျိုးကဲ့သို့ သီချင်းတပုဒ်တွင် စကားလုံး အနည်းငယ်သာ ပါသော တိုတောင်းသည့် သီချင်းမျိုး ဖြစ်သည်။ တေးသွားသည် တမျိုးတည်းလိုလိုပင် ဖြစ်၍ တိုတောင်းသော ထိုသီချင်းကိုပင် ထပ်တလဲလဲ သီဆိုကြမည်ဟု ယူဆရသည်။ထိုစဉ်က သီချင်း၊ သို့မဟုတ်တေးဂီတတို့သည် တေးသွား ဆန်းပြားခြင်း မရှိပဲ အသံ အနိမ့်အမြင့် ပြေပြစ်မှုနှင့် စည်းဝါးကိုက်မှုတို့ကို ထောက်ဆ၍သာ သီချင်းဟူ၍ ခေါ်ဆိုရပေမည်။ လူနေမှုစံနစ် တိုးတက်လာ၍ စကားလုံးဝေါဟာရ ကြွယ်ဝ လာသည်နှင့်အမျှ တေးသီချင်း ဖွဲ့နွဲ့သီကုံး သီဆိုခြင်းသည်လည်း တစတစ ဖွံ့ဖြိုး တိုးတက်လာလေသည်။

သဘင်ပညာတွင် တမျိုး အပါအဝင်ဖြစ်သော သီချင်း သီဆို တီးမှုတ်ခြင်း အတတ်သည် စိုက်ပျိုးရေး စသော လူတို့၏ စားဝတ်နေရေး လုပ်ငန်းများ၊ ဘာသာ အယူဝါဒ ကိုးကွယ်မှုနှင့်အုပ်ချုပ်သူ ဘုရင် စိုးမင်းတို့ကို အခြေပြု၍ တိုးတက် ကြီးပွားလာသည်။ သီဆို ကခုန်ခြင်းသည် ပျော်ရွှင် မြူးထူးခြင်း ဖြစ်သည်။ လုပ်ငန်း ဆောင်တာတို့ကို ဆောင်ရွက်ယင်း အငြီးပြေစေရန်၎င်း၊ လုပ်အား ရှိစေရန်၎င်း သီချင်းငြီးရာမှ ရိုးရာသီချင်းများ ပေါ်ပေါက်လာသည်။ အထူးသဖြင့် လူစုလူဝေးနှင့် တပျော်တပါး လုပ်ကိုင်ကြသည့်အခါ တေး သီလေ့ ရှိကြသည်။ စိုက်ပျိုးရေး လုပ်ငန်းသည် အသက်မွေး ဝမ်းကျောင်းအတွက် အဓိက ဖြစ်သော ကျွန်ုပ်တို့မြန်မာနိုင်ငံ၌ ကောက်စိုက် သီချင်း၊ ကောက်ရိတ် သီချင်း၊ မောင်းထောင်း သီချင်း၊ ရက်ကန်း သီချင်းတို့သည် ဤသို့ဖြင့် ပေါ်ပေါက်ခဲ့သည်။ ထို့ပြင် လူတို့သည် မိမိတို့၏ ခံစားချက်ကလေးများကိုလည်း လုပ်ငန်း ဆောင်တာများကို ဆောင်ရွက်ယင်း တေးသီကာ ဖွင့်ထုတ်လေ့ ရှိကြသည်။ ထို့ကြောင့် ရိုးရာ သီချင်းများသည် ခေတ်၏ လူနေမှု စံနစ်နှင့် အခြေအနေတို့ကို ထင်ဟပ်ပြသော ခေတ်၏ကြေးမုံတမျိုး ဖြစ်သည်။ သို့သော် ရိုးရာသီချင်းများသည် တွေ့ရာ မြင်ရာကို ဂီတသံနှော၍ သီဆိုသွားခြင်းလည်း ရှိသဖြင့် နောင် ပေါ်ပေါက်လာသော တမင် ကြံစည် တီထွင် ရေးစပ် ဖွဲ့နွဲ့ထားသည့် သီချင်း အဆင့်အတန်းမျိုး မရှိသေးပေ။

ဗုဒ္ဓ အယူဝါဒ၊ ခရစ်ယန် အယူဝါဒတို့ မပေါ်ပေါက်မီက လူတို့သည် နတ်ကိုးကွယ်မှုကို ပြုခဲ့ကြသည်။ ကိုးကွယ်သည့် နတ်များကို ရိုသေသမှု ပူဇော် ပသကြရာ၌ သီဆိုခြင်း၊ တီးမှုတ်ခြင်း၊ ကခုန်ခြင်းတို့ကိုလည်း ပြုခဲ့ကြသည်။ ယဉ်ကျေးမှု စတင် ထွန်းကားရာ ဖြစ်သော အီဂျစ်၊ အိန္ဒိယ စသည့် နိုင်ငံကြီးများ၌ သီဆို တီးမှုတ်ခြင်းများ ပြု၍ နတ်ပူဇော်ပွဲများ ကျင်းပကြောင်း သိရသည်။ ဂရိတို့သည် ဗိုင်အိုနိုင်းဆပ် နတ်မင်းအား ပူဇော်ပွဲ၌ ယိမ်းအဖွဲ့ကဲ့သို့ သံပြိုင်တေးဆို ပူဇော်သမှု ပြုခဲ့ကြလေသည်။

မြန်မာနိုင်ငံတွင်လည်း ဗုဒ္ဓသာသနာ မပျံ့နှံ့မီက နတ်ကိုးကွယ်မှု ပြုကြသည်။ နတ်ပွဲများ ကျင်းပသည့်အခါ သီဆိုကြသည့် နတ်ချင်း ဟူသော သီချင်း အဖွဲ့အနွဲ့တမျိုး ပေါ်ပေါက်ခဲ့သည်။ မြန်မာနိုင်ငံသို့ ဗုဒ္ဓသာသနာ ပျံ့နှံ့ရောက်ရှိလာပြီး နောက်တွင်လည်း အယူဝါဒဆိုင်ရာ သီချင်းများ စပ်ဆို သီကုံးမှု ရှိခဲ့ကြောင်း အထောက်အထားများ ရှိခဲ့သည်။ သရေခေတ္တရာခေတ်တွင် တရုပ်နိုင်ငံသို့ ချစ်ကြည်ရေး သွားရောက်သော ပျူယဉ်ကျေးမှု အဖွဲ့သည် ထိုနိုင်ငံတွင် ဘုရားဂုဏ်တော်ကို ချီးကျူးသော သီချင်းများ သီဆိုကပြခဲ့ကြောင်း တရုပ် မှတ်တမ်းများတွင် ဖော်ပြသည်။ (မြန်မာသီချင်းများ — ရှု။) ထို့ကြောင့် ကိုးကွယ်မှုအယူ

ဝါဒကို အခြေပြု၍ သီချင်း သီကုံး စပ်ဆိုမှု တိုးတက်ခဲ့မည်မှာ ယုံမှားဖွယ်ရာ မရှိချေ။

ရှေးခေတ် အီဂျစ်တွင် နတ်ပူဇော်ပွဲများ ပြုလုပ်ရာ၌ သီဆို တီးမှုတ်မှုတို့လည်း ပါဝင်ကြောင်း ဆိုခဲ့သည်။ ထို့ပြင် ဘုရင်စိုးမင်းတို့ကလည်း ဂီတကို အားပေး ချီးမြှင့်ခဲ့ကြသည်။ အီဂျစ်ဂီတသည် ထီးသုံး နန်းသုံး ဖြစ်ခဲ့သည်။ ထို့ကြောင့် ရှေးခေတ် အီဂျစ်နိုင်ငံတွင် ခမ်းနား ကြီးကျယ်သော သံစုံ တီးဝိုင်းကြီးများပင် ရှိခဲ့ကြောင်း ဖော်ပြကြသည်။ မြန်မာ မင်းခမ်း မင်းနားများ၌လည်း ခန့်ညားသော သီဆို တီးမှုတ်မှုသည် တစိတ်တဒေသအဖြစ် ပါဝင်သည်။ မြန်မာ ဘုရင်များသည် ဂီတစာဆိုများကိုလည်း ချီးမြှင့်ခဲ့သည်။ ထို့ကြောင့် ရှေး မြန်မာသီချင်းကြီး သီချင်းခန့်များသည် ဂီတလောကတွင် ထယ်ဝါ ခန့်ညားစွာဖြင့် မြန်မာ့ဂုဏ်ကျက်သရေကို ဆောင်နိုင်ခဲ့ပေသည်။ သို့ဖြစ်လေရာ ဘုရင် စိုးမင်းတို့၏ ချီးမြှင့်မှုကြောင့်လည်း သီချင်း ဂီတ၏ အခြေအနေ အဆင့်အတန်း တိုးတက်ခဲ့လေသည်။

ရှေးခေတ် အီဂျစ်တို့၏ ဂီတသည် ဂရိနှင့် ယဟူဒီတို့ထံသို့ ပျံ့နှံ့ခဲ့သည်။ ဂရိတို့သည် ဂီတကို အလွန်မြတ်နိုး၍ ဂီတဖက်တွင် အတော် တိုးတက်ခဲ့ကြသည်။ ဂရိနိုင်ငံတွင် အလွှမ်း ပြဇာတ်များ ခေတ်စားစဉ်အခါက ပြဇာတ်ဆရာကြီးအချို့သည် ပွဲကြည့်ပရိသတ်အား လွှမ်းခန်းကိုချည်း ကြည့်၍ ငြီးငွေ့ခြင်း မဖြစ်ရလေအောင် စိတ်လက် ပေါ့ပါးသက်သာစေမည့် တေးဂီတ သီဆိုရသော အခန်းမျိုး ထည့်သွင်း ပေးခဲ့ကြသည်။ ဘီစီ ခုနစ်ရာစု၊ ခြောက်ရာစု၊ ငါးရာစုနှစ်များ အတွင်း၌ စောင်း တူရိယာမျိုးဖြင့် သီဆိုရသော တေးသီချင်းမျိုး ဂရိနိုင်ငံတွင် ခေတ်စားခဲ့ လေသည်။ ဂရိ ဂီတ ထွန်းကားသော ခေတ်တွင် ဂီတ သင်္ကေတများကို အသုံးပြု၍ သီဆို တီးမှုတ်ခဲ့သည်ဟု အချို့က ဆိုသော်လည်း အထောက်အထား အခိုင်အလုံ မပြနိုင်သေးပေ။

ဂရိနိုင်ငံကို ရောမတို့ လွှမ်းမိုးပြီးနောက်တွင် ဂရိဂီတသည် ရောမတို့ထံသို့ ရောက်ခဲ့သည်။ ရောမတို့၏ ခေတ်တွင် တီးမှုတ်မှုများ ထွန်းကားခဲ့သော်လည်း ရောမတို့သည် ဂရိတို့လောက် ဂီတအရာ၌ ထက်မြက်ခြင်း မရှိကြ၍ သီချင်း သီကုံး စပ်ဆိုမှု နည်းပါးခဲ့လေသည်။

ဂရိတို့ ကောင်းစားစဉ်က ဂီတကို အယူဝါဒဆိုင်ရာ အခမ်းအနားတွင်သာမက လူမှုရေး ကိစ္စများ၌လည်း အများဆုံး အသုံးပြုခဲ့လေသည်။ ယဟူဒီတို့သည်ကား ဂီတကို အယူဝါဒရေးရာ၌ အသုံးများလေသည်။

အရှေ့နိုင်ငံများ ဖြစ်ကြသော တရုပ်၊ အိန္ဒိယ၊ မြန်မာ၊ ယိုးဒယား၊ ဂျားဗား စသည်တို့တွင်လည်း ရှေးပဝေဏီက အစပြု၍ ဂီတပညာ ထွန်းကားခဲ့သည်။ တရုပ်နှင့် အိန္ဒိယနိုင်ငံများသည် အီဂျစ်၊ ဂရိတို့နှင့် တခေတ်တည်းတွင် ဂီတအရာ၌ ဖွံ့ဖြိုး တိုးတက်ခဲ့ကြသည်။ ကျန် အာရှတိုက်နိုင်ငံများသည် များသောအားဖြင့် နီးစပ်ရာ တရုပ်ဂီတ၊ အိန္ဒိယ ဂီတများ၏ လွှမ်းမိုးရာဖြစ်ခဲ့သည်။

အရှေ့တိုင်း ဂီတနှင့် အနောက်တိုင်း ဂီတတို့ တိုးတက်ပြောင်းလဲလာပုံမှာ ခြားနားသည်။ အရှေ့တိုင်းတွင် ခရစ်တော် မပေါ်မီကပင် ထွန်းကားနေခဲ့သော ဂီတပညာသည် မည်သည့်အခါတွင်မျှ တိမ်မြုပ်သွားသည် ဟူ၍ မရှိခဲ့ပဲ တိုးတက် ပြောင်းလဲမှုသည်လည်း တဖြည်းဖြည်းချင်းသာ ဖြစ်သည်။ အနောက်တိုင်း ဂီတ ပညာသည်မူ ဂရိနှင့် ရောမတို့ ခေတ်ကုန်အထိ အထူးတိုးတက်ခဲ့ပြီး နောက်တွင် ကာလ အတန်ကြာ ဆုတ်ယုတ်သွားခဲ့သည်။ ခရစ်တော်ပေါ်ပြီး နောက်တွင်မှ ပြန်လည် အသက်ဝင် လာပြီးလျှင် လျှပ်ရှား တိုးတက်မှုများ ရှိလာသည်။ ကယ်တင်ရှင် ဖြစ်သော ခရစ်တော်အား တိုင်တည် ဆုတောင်းမှုကို အခြေခံသည့် ဓမ္မ သီချင်းသံတို့သည် သာယာ နာပျော်ဖွယ်ရာ တေးဂီတများ ဖြစ်ကြပေသည်။ ထို ဓမ္မသီချင်းများသည် များသောအားဖြင့် ယဟူဒီတို့၏ ဂီတသံ အများဆုံး ပါဝင်သည်။ ထိုအချိန်အခါက ခရစ်ယန် အယူဝါဒဆိုင်ရာ ဂီတတို့သည် ယခုခေတ် ဘုရားဝတ်ကျောင်း ဂီတတို့နှင့် တူမှတူမည် ဖြစ်သော်လည်း အခြေခံအားဖြင့်မူ တသဘောတည်း ဖြစ်သည်။ ဓမ္မတေးသံတို့သည် ရှေးဦး အစကကဲ့သို့ ကယ်တင်ရှင် ပေါ်ပေါက်လာသဖြင့် ဝမ်းမြောက်ခြင်း သက်သက်မှ ပေါ် ထွက်သော တေးဂီတများသာမက ဝမ်းမြောက်ခြင်းကိုဖြစ်စေသော ဓမ္မသီချင်းများကိုလည်း သီဆိုတီးမှုတ်ခဲ့ကြသည်။ သီချင်း သီဆိုခြင်းသည် အယူဝါဒရေးရာအခမ်းအနားများ၌အရေးပါသောအစိတ်အပိုင်းတခုဖြစ်လာသည်။

အယူဝါဒဆိုင်ရာ ဂီတများ တစတစ တိုးတက်လာစဉ် အယူဝါဒ ရေးရာနှင့် မသက်ဆိုင်သော တေးဂီတ တို့သည်လည်း ပေါ် ပေါက်ခဲ့သည်။ အရပ်သူ အရပ်သားတို့၏ ဓလေ့ထုံးစံ သီချင်းများ၊ မောင်ဘွဲ့ မယ်ဘွဲ့ သီချင်းများလည်း ပေါ် ပေါက်ခဲ့သော်လည်း ယင်းတို့သည် လူတို့၏ အကျင့်စာရိတ္တကို ထိခိုက်စေသည် ဟူ၍ အယူဝါဒရေး ဆိုင်ရာ အာဏာပိုင်တို့က ပိတ်ပင်ခဲ့သဖြင့် တိုးတက်သင့်သလောက် မတိုးတက်ခဲ့ချေ။ ထို့ကြောင့် ထိုခေတ်တွင် ဓမ္မ သီချင်းများကိုသာ အများအပြား သီကုံးခဲ့ကြသည်။ တူရိယာများကိုလည်း အလွတ် တီးမှုတ်ခြင်း မပြုပဲ သီချင်းဆိုရာ၌သာ တွဲဖက် တီးမှုတ်ကြသည်။ အလယ်ခေတ်၏ အစပိုင်းလောက်တွင် ဂီတသံများကို သင်္ကေတများဖြင့် ရေးမှတ်ရန် အားထုတ်ခဲ့ကြရာ ရှေးဂရိသင်္ကေတများထက် စံနစ် ပို၍ ကောင်းသော်လည်း နားလည်ရန် ခဲယဉ်းလေသည်။

အလယ်ခေတ် နောက်ပိုင်းတွင် ဝတ်ကျောင်း တေးဂီတများ တိုးတက်လာသည်နှင့် အမျှ အယူဝါဒ ဆိုင်ရာတို့၏

ပိတ်ပင်မှု လျော့ပါးလာသဖြင့် အရပ်သီချင်း၊ ရိုးရာ သီချင်းများ ခေတ်စားလာသည်။ ၁၁ ရာစုနှစ် ခန့်တွင် ပြင်သစ်နိုင်ငံ တောင်ပိုင်းမှ လူကုံထံတို့သည် ဓမ္မသီချင်းမှ အပဖြစ်သော တေးဂီတများကို လိုက်စားကြသည်။ မြောက်ပိုင်းတွင်မူ အရပ်သားများကသာ လိုက်စား ကြသည်။ အခြား ဥရောပ နိုင်ငံများတွင်လည်း ဂီတလိုက်စားမှုကို ပြုလာကြသည်။ ဂျာမနီနိုင်ငံတွင်လည်း မင်းခစား လူကုံထံများသည် မိမိတို့ ခစားရသော မှူးကြီးမတ်ရာနှင့် ကတော်များအား မိမိတို့ကိုယ်တိုင် ရေးစပ်သော သီချင်းများကို သီဆိုကာ စောင်းတီး ဖြေဖျော်ခဲ့ကြသည်။ ပြင်သစ်သီချင်း များသည် ချစ်မေတ္တာကို ဖွဲ့ဆိုသော သီချင်းမျိုး၊ အမျိုးဂုဏ်နှင့် အချစ်အတွက် စွန့်စားပုံများကို ဖွဲ့ဆိုသော သီချင်းမျိုး ဖြစ်ကြသည်။ ဂျာမန် သီချင်းများသည် သဘာဝနှင့် သဘာဝအလှကို အလေးထား၍ ရေးစပ်ထားခြင်း ဖြစ်သည်။ လူကုံထံများသာမက အရပ်သူ အရပ်သားများပါ ထိုသီချင်းမျိုးတို့ကို ရေးစပ်ကြသည်။ ထိုစဉ်က ပညာရေးသည် ဘုန်းကြီးကျောင်း ပညာရေး ဖြစ်သဖြင့် သီချင်းများ စပ်ဆိုကြရာ၌ သာသနာ၏ အရှိန်အဝါ လွှမ်းမိုးမှု ရှိလေသည်။

အခြား ဥရောပ နိုင်ငံများ၌လည်း ဂီတလိုက်စားမှု ပိုမိုများပြားလာသည်။ ရာဇဝင်သမိုင်းလာ အဖြစ်အပျက်များကိုလည်း တေး သီကုံးကြသည်။ အင်္ဂလန်ပြည်တွင် တရပ်မှ တရပ်သို့ လှည့်လည် သွားလာကာ စောင်းပြွေတို့ကို တီးမှုတ်၍ သီဆိုသော သီချင်းသည်များ ပေါ်ပေါက်လာသည်။ သီချင်းသည်များသည် လူမှုရေး အဆင့်အတန်း အမျိုးမျိုးမှ လာသော်လည်း ဂီတဗဟုသုတ ကြွယ်ဝကြလေသည်။

ခရစ် ၁၄၅၀ ပြည့်နှစ်မှ ၁၆၀၀ ပြည့်နှစ်အတွင်း ဥရောပနိုင်ငံများ၌ သီချင်း သီကုံးစပ်ဆိုမှုကို အများအပြား ပြုလုပ်ကြသည်။ ရိုးရာသီချင်းများသည် လူတို့၏ ရင်တွင်းမှ အလိုအလျောက် ပေါက်ဖွားလာသော သီချင်းမျိုး ဖြစ်သည်။ လူတို့ ကြံစည်တီထွင်၍ စည်းကမ်း စံနစ်တကျ စပ်ဆိုထားသော သီချင်းမျိုးသည် ၁၅ ရာစု နှစ်လောက်ကမှ စတင်ပေါ်ပေါက်သည်ဟု ဆိုရပေမည်။ စင်စစ် ရိုးရာသီချင်းများသည် ကြံစည်တီထွင်၍ စည်းကမ်း စံနစ်တကျ စပ်ဆိုခြင်း မရှိခဲ့စေကာမူ နောင်စပ်ဆိုသော သီချင်းများသည် ရိုးရာသီချင်းများပါ အကြောင်းရပ်များကို မှုတည်၍ ဖွဲ့နွဲ့ခဲ့ခြင်းများလည်း ရှိပေသည်။ မြန်မာ့ရိုးရာ သီချင်းများတွင် လမင်းကို တိုင်တည်၍ ချစ်သူကို တမ်းတသကဲ့သို့ နောင်အခါ ရေးစပ် ဖွဲ့နွဲ့ သီကုံးကြသော သီချင်းများတွင်လည်း လမင်းကို တိုင်တည်၍ ချစ်သူကို တမ်းတထားသည်များကို တွေ့ရသည်။ အနိုင်နိုင်ငံမှ သီချင်းများတွင်လည်း ထိုသဘောအတိုင်း တွေ့ရလေသည်။

အင်္ဂလန်ပြည့်ရှင် ပဌမ အယ်လစ်ဇဗက် ဘုရင်မကြီး၏ လက်ထက်တွင် ခေတ်စားသော ပြဇာတ်များ၊ အထူးသဖြင့် ရှိတ်စပီးယား၏ ပြဇာတ်များတွင် ထီးသံ နန်းသံပါသော သီချင်းများကိုဎင်း၊ တောခလေ့သီချင်းများကိုဎင်း ဆိုင်ရာဆိုင်ရာ အံကိုက် ဘောင်ဝင်အောင် ထည့်သွင်း အသုံးပြုကြသည်။ ထိုခေတ်က ပေါ်ထွန်းသော ကဗျာကောင်းကဗျာမွန်တို့ကိုလည်း တေးသံသွင်း၍ သီဆိုခဲ့ကြရာ၊ အတီးအမှုတ်ဆိုင်ရာကလည်း တေးသားနှင့် တေးသွား ကောင်းသလောက် လိုက်ဖက်ကောင်းမွန်သည်လည်း ရှိခဲ့ပေသည်။

သီဆိုရန် သီချင်းများ ရေးစပ်ခြင်းကို အများအပြား ပြုလုပ်ကြသည်သာမက သီချင်းများ၏ နာဒီ စည်းဝါး ကိုက်မှု စံနစ်များကိုလည်း တိုးတက် ပြုပြင်ကြသည်။ ၁၅ ရာစုနှစ် နောက်ပိုင်းတွင် ပုံနှိပ်စက်များ ပေါ်လာသဖြင့် သီချင်းသည်များ ပျောက်ကွယ်သွားသည်။ ဗဲလက် ခေါ် သီချင်းများကို ပုံနှိပ်ရောင်းချခြင်း ပြုကြလေသည်။

ထိုခေတ်တွင် ဂီတဖက်၌ အလွန် နိုးကြားတက်ကြွသော နိုင်ငံသည် ဣတလီနိုင်ငံ ဖြစ်သည်။ သီချင်း သီကုံးမှု၌ဎင်း၊ အဆိုဖက်၌ဎင်း၊ အတီးအမှုတ်ဖက်၌ဎင်း ဖွံ့ဖြိုး တိုးတက်မှုများ ရှိခဲ့လေသည်။ ဥရောပတိုက်၌ ခေတ်စားသော သီချင်းများစွာတို့သည် ဣတလီနိုင်ငံ၌ စတင် ပေါ်ပေါက်သော သီချင်းများ ဖြစ်ကြသည်။ ၁၄ ရာစုနှစ်တွင် ဣတလီနိုင်ငံ၌ စတင် စပ်ဆိုခဲ့ကြ၍ ဆိုသူ နှစ်ဦး၊ သို့မဟုတ် သုံးဦး အလှည့်ကျ ပါဝင် သီဆိုရသည့် မက်ဒရီဂယ်ခေါ် သည့် သီချင်းမျိုးသည် ၁၆ ရာစုနှစ်တွင် ပြန်လည် ခေတ်စားလာပြီးလျှင် ဥရောပနိုင်ငံများသို့လည်း ထိုသီချင်းမျိုး ပျံ့နှံ့ခဲ့လေသည်။

ဆဲ့ခြောက်ရာစုနှစ်ခန့်ကစ၍တယောက်တည်းသီဆိုရသော သီချင်းများ ခေတ်စားလာသည်။ ထိုအခါ သီချင်းစပ်ဆိုမှုဖက်တွင် အားတက်လာသည်။ သီဆိုသူများလည်း မိမိတို့၏ စွမ်းရည်ကို တဦးချင်း ပြသခွင့် ရသဖြင့် ကြိုးစား လာကြသည်။ သီချင်းအဆိုနှင့် တွဲဖက် တီးမှုတ်သည့် တူရိယာများလည်း တိုးတက်လာသည်။ တူရိယာများ စုပေါင်းတီးမှုတ်ခြင်း၊ ဗယ် ညာ သံစုံ ညီညွတ်မှုရှိခြင်း၊ တေးသွား၌ သံစုံပါခြင်း စသော ခေတ်သစ်ဂီတကို ၁၆ ရာစုနှစ် နောက်ပိုင်း၌ ဣတလီ နိုင်ငံကပင် စတင်ခဲ့သည်။ ဂီတ သစ်ကို ခေါင်းဆောင် တီထွင်ခဲ့သူသည် ပါလေစတြီးနား ဆိုသူဖြစ်လေသည်။

သီချင်းများ ရေးဖွဲ့ရာမှ တစတစနှင့် ဂီတ လောက၌ ကဏ္ဍ သစ်တရပ်ဖြစ်သော အော်ပရာခေါ် ဂီတဇာတ်ကို ၁၇ ရာစုနှစ်တွင် ဣတလီ နိုင်ငံကပင် စ၍ ထွင်လိုက်ပြန်သည်။ ဂီတ ဇာတ်သည် လူ့အသံဖြင့် ဂီတဖြစ်အောင် ဖန်တီးကာ ထိုဂီတဖြင့် ဇာတ်လမ်း သရုပ်ဖော်သွားသည်။ ထိုခေတ်က အတီးအမှုတ် တူရိယာဖက်၌ တိုးတက်သည်ဟု ဆိုရ

စေကာမူ တူရိယာ ပစ္စည်းများ မစုံလင်သေးပေ။ သို့သော် လူ့အသံကို ကျွမ်းကျင်စွာ အသုံးပြုပါက တူရိယာ အတွဲ အဖက်နှင့် သုံးသကဲ့သို့ပင် သာယာ နာပျော်ဖွယ်သော ဂီတ ဖြစ်လာနိုင်သည်။ ထို့ကြောင့် ဂီတဇာတ် ရေးသား ရသော ဂီတစာဆိုကြီးများသည် လူ့အသံကို ဂီတ ဖြစ် အောင် ဖန်တီးရာ၌ အလွန် ကျွမ်းကျင်ကြရပေသည်။ မွန် တေ ဗာဒီသည် ဂီတဇာတ်ကို အစပျိုးပေးခဲ့သူ ဖြစ်ပြီးလျှင် စကာလေတီသည် ခေတ်သစ် ဂီတနှင့် ဂီတဇာတ်ကို အခြေခံ ခိုင်မြဲအောင် ဆောင်ရွက်ခဲ့သော ဣတာလျံ ဂီတ ပညာရှင် တဦး ဖြစ်ပေသည်။

ဆဲ့ခြောက်ရာစုနှစ်မှဆဲ့ခုနစ်ရာစုနှစ်အတွင်းဂီတတိုးတက် မှုကိုသုံးသပ်ကြည့်လျှင် အဆိုဖက်၌ တိုးတက်မှုက သာလွန် ကြောင်း တွေ့ရသည်။ ယင်းသည်လည်း ဘုရားဝတ် ကျောင်း ဂီတ၏ ကျေးဇူးကြောင့်ဟု ဆိုနိုင်သည်။ သီချင်း အမျိုးမျိုးကို စပ်ဆိုကြရာ၌ သံပြိုင် သီချင်းများကို သီ ဆိုသောအခါ နှစ်ယောက်မှ ငါးယောက် စသည်ဖြင့် အသံ မရွေး သံပြိုင် ပါဝင် သီဆိုကြသည်ထက် လိုက်ဖက်သော အသံမျိုးကို တွဲဖက် သီဆိုစေခြင်းဖြင့် ပို၍ ဂီတရသ ပေါ် လွင်သည်ကို တွေ့ကြရသည်။ ထို့ကြောင့် လူ့အသံ ဖက်စပ် ရာ၌လည်း သတိထားလာကြပြီးလျှင် လိုက်ဖက်သော အ သံတို့ကို ရွေး၍ နှစ်ယောက်တွဲ၊ သုံးယောက်တွဲ၊ လေး ယောက်တွဲ၊ ငါးယောက်တွဲ စသည်ဖြင့် အသံ အတွဲအဖက် ညီညွတ် သာယာမှု ရှိစေအောင် သံပြိုင် သီချင်းများကို သီဆိုစေသည်။ နှစ်ယောက်တွဲ သီဆိုရသည့် သီချင်းတွင် ဆန့်ကျင်သံများကို တွဲ၍ သုံးသည်။ ပုံစံအားဖြင့်ဆိုလျှင် ယောကျ်ား အမြင့်သံနှင့် အနိမ့်သံ၊ မိန်းမ အမြင့်သံနှင့် အနိမ့် သံတို့ကိုတွဲဖက်သီဆိုရသော သီချင်းမျိုးသည် ဣတာလျံဂီတ ဇာတ်ဆရာများ အနှစ်သက်ဆုံးသော စပ်နည်း ဖြစ်သည်။ သုံးယောက်တွဲ ဆိုရသော သီချင်းမျိုးသည် အသံစိန်စ် အချ ရ အခက်ဆုံးဖြစ်သည်။ ထို့ကြောင့် ထိုနည်းကို အသုံးနည်း သည်။ လေးယောက်တွဲ၍ ဆိုရသော နည်းသည် အသံတွဲ အသံဖက် စုံစုံတွဲဖက်နိုင်သဖြင့် အသုံးများသည်။အကောင်း ဆုံး အတွဲအဖက်မှာ မိန်းမ အမြင့်သံနှင့် အနိမ့်သံ၊ ယောကျ်ား အမြင့်သံနှင့် အနိမ့်သံ အတွဲ၊ သို့မဟုတ် ယောကျ်ား အမြင့်သံ နှစ်ယောက်နှင့် ယောကျ်ား အနိမ့်သံ နှစ်ယောက်တို့ တွဲဖက်ရသော အတွဲဖြစ်သည်။ တခါတရံ ယောကျ်ား အမြင့်သံ တယောက်၊မိန်းမအနိမ့်သံတယောက်၊ ယောကျ်ား အနိမ့်သံ နှစ်ယောက်တို့ တွဲရသော စပ်ဆိုနည်း ကိုလည်း သုံးကြလေသည်။

ဆဲ့ရှစ်ရာစုနှစ် တိုင်အောင် ဣတလီ နိုင်ငံသည် ဂီတ လောကကို ခေါင်းဆောင်လျက်ပင် ရှိခဲ့သည်။ သို့ရာတွင် နောက်ပိုင်း၌ ဂျာမနီ နိုင်ငံသည် သီဆိုမှု သက်သက် ဖြစ် သော သီချင်းများအတွက် ထင်ရှားလာသည်။ လိုင်ဒါ ခေါ် ထို ဂျာမန်သီချင်းများသည် ဂီတ စာဆိုကြီး ရှူးဗတ် ၏ လက်ထက်တွင် အတိုးတက်ဆုံး ဖြစ်သည်။ (ရှူးဗတ်, အက်(ဖ)ပီ—ရှု။) ဂျာမန် ဂီတလောကမှ သီဆိုရန် သီချင်း များသာမက၊ စန္ဒယား တီးလုံးတီးကွက်များ၊အော်ဂန်ခေါ် လေသွင်း တူရိယာအတွက် တီးလုံး တီးကွက်များ၊ သံစုံ တီးဝိုင်းများအတွက် တီးလုံး တီးကွက်များ၊ ဂီတ ဇာတ် စသည့် ပြောင်မြောက်သော ဂီတ အမျိုးမျိုးတို့လည်း ပေါ် ထွက်ခဲ့သည်။ ထွန်းပြောင်သော ဂီတ စာဆိုကြီးများမှာ ဗာ့ခ်နှင့် သားမြေးတစု၊ ဂျော့ဟန်းဒယ်၊ ဂျိုးဇက်ဟိုင်းဒင်၊ မိုးဇတ်၊ လုဒဗစ် ဗေးထိုးဗင်၊ မင်ဒယ်ဇုန်၊ ရှူးမန်း၊ ရော ဗတ် ဗားဂနား၊ ဗရမ်း စသည်တို့ ဖြစ်ကြသည်။ ပိုလန်နိုင်ငံမှ ရှိုပန်၊ ဟန်ဂေရီမှ လစ္ဇတို့သည်လည်း ဂျာမန် ဂီတအရာ၌ ထွန်းပေါက် ကျော်ကြားသူများ ဖြစ်ကြလေသည်။ (ဟန်း ဒယ်။ ဟိုင်းဒင်။ ဗာ့ခ်။ မိုးဇတ်။ ဗေးထိုးဗင်။ မင်ဒယ်ဇုန်။ ရှူးမန်း။ ဗားဂနာ။ ဗရမ်း။ လစ္ဇ — လည်းရှု။)

ဆဲ့ရှစ်ရာစုနှစ် အတွင်း၌ပင် ဥရောပတွင် အယဉ် အသန့် အခန့် သီချင်းများ၊ တီးလုံး တီးကွက်များ အလွန်ခေတ်စား နေစဉ် သဘာဝကို အခြေပြုသော ရိုးရာသီချင်းများကို ပြန် လည် ဖော်ထုတ်မှုများလည်း ပြုလုပ်လာကြသည်။ ၁၇ ရာစု နှစ်အတွင်း၌ ပေါ်ပေါက်ခဲ့သော စစ်မက်ရေးရာများ၊ လူ နေမှု စံနစ် အပြောင်းအလဲများကြောင့် မျိုးချစ်စိတ်များ နိုးကြား တက်ကြွလာကြသည်။ ရုရှနှင့် အင်္ဂလန် စသော တိုင်းပြည်အချို့တွင် မိမိတို့နိုင်ငံ၏ ရိုးရာ သီချင်းများကို ပြန်လည် ဖော်ထုတ်၍ ယင်းတို့ကို အခြေပြုကာ သီချင်း များကို စပ်ဆို သီကုံးကြသည်။ ရိုးရာ သီချင်းများကို အ ခြေပြု၍ သီချင်းများ၊ သံစုံတီးဝိုင်းကြီးများအတွက် တီးလုံး ဂီတများကို စပ်ဆိုရာ၌ အကျော်အမော် ရုရှ ဂီတစာဆို တဦးသည် ချိုင်ကော့စကီး ဖြစ်လေသည်။

ဆဲ့ကိုးရာစုနှစ် နောက်ပိုင်းတွင် သီချင်းများ၊ တီးလုံး တီးကွက်များ ရေးစပ်၍ ဥရောပ၌ မော်ကွန်းဝင် ထင်ရှား သော ဂျာမန် ဂီတစာဆိုကြီး တဦးမှာ ရစ်ချတ် ရှထရောက် ဖြစ်လေသည်။ဖင်းလန်နိုင်ငံမှ ဆီဗေလီယော့၊အင်္ဂလန်မှ ဆာ အာသာ ဆာလီဗန်တို့လည်း ထင်ရှားကျော်ကြားကြသည်။

ဆဲ့ကိုးရာစုနှစ်ကုန်အထိ ဥရောပ၌ ဂျာမန်ဂီတ လွှမ်းမိုးခဲ့ သော်လည်း ၂၀ ရာစုနှစ်တွင် ပြင်သစ်နိုင်ငံ ဂီတစာဆို ဒဗျူ ဆီ၏ အင်ပရက်ရှင်းဂီတခေါ် ဂီတသစ်တမျိုး ထင်ရှားလာ သည်။ ထို့ပြင် အာသာ ဟိုနက်ဂျာ ခေါင်းဆောင်သော ဂီတ စာဆိုအုပ်စု တစုကလည်း ဂီတသစ်တမျိုး ထွင်ကြပြန်လေ သည်။ အင်္ဂလန်မှ ဆာ အာနို ဗက်၊ ဗင်ဂျမင် ဗရစ်တန် စသော အင်္ဂလိပ် ဂီတပညာရှင် တစုတို့ကလည်း အမျိုးသား ဂီတသစ်ကို ဖန်တီးကြ၍ ကျော်ကြား လာကြလေသည်။

အမျိုးသား ဂီတသစ်ကို တီထွင်၍ ကျော်ကြားသော အခြား ဥရောပတိုက်သား ဂီတပညာရှင်တို့မှာ စပိန်နိုင်ငံမှ ဖားလျာ၊ ဣတလီနိုင်ငံမှ ဒယ်လာ ပစ်ကိုလာတို့အပြင်၊ ဟန်ဂေရီနိုင်ငံမှ ဗော်တော့၊ ဆွစ်လူမျိုး အားနက် ဗလော့တို့ ဖြစ်ကြလေသည်။

သာယာမှုနှင့် အလှအပ စသော ဣဋ္ဌာရုံများကို မလိုလားသည့် ပျူရီတန်ဂိုဏ်း၏ ချုပ်ချယ်မှုကြောင့် အမေရိကန် ပြည်ထောင်စုတွင် ဘုရားဝတ်ကျောင်း များ ၌ ၎င်း၊ ပြင်ပ၌၎င်း ဂီတပညာသည် အရေးအရာ မရောက်ခဲ့ပေ။ တိုင်းရင်းသား ရက်အင်ဒီးယန်း လူမျိုးနှင့် ကပ္ပလီလူမျိုးတို့ ကသာလျှင် ဂီတပညာကို အလေးထား၍ သီဆိုတီးမှုတ် ကခုန်မှုတို့ကို ပြုခဲ့ကြသည်။ ထိုပြင် အမေရိကန်တို့သည် စီးပွားရေးနှင့် စက်မှု လုပ်ငန်း တိုးတက်ရေးတို့၌သာ အာရုံစူးစိုက်ကြပြီးလျှင် အနုပညာဖက်၌ အားပေးမှု မရှိခဲ့လှချေ။ ထိုကြောင့် ဥရောပ၌ ဂီတပညာ အထွတ်အထိပ် ရောက်နေချိန် အမေရိကန် ပြည်ထောင်စု၌ ဂီတပညာသည် မည်မည်ရရ မရှိခဲ့ချေ။ ၁၉ ရာစုနှစ် ကုန်ဆုံးလု ခေတ်တွင် အက်ဒ်ဝပ် မက်ဒူးဝဲ အမည်ရှိ ပုဂ္ဂိုလ်ကြီးသည် အမေရိကန် ဂီတကို စတင်ပျိုးထောင်ခဲ့သည်။ ဂျော့ ဂါရှင်သည် အမေရိကန် ကပ္ပလီများ၏ ဂီတကို အခြေပြု၍ အမေရိကန် ဂီတတမျိုး ထွင်ခဲ့သည်။ အခြား အမေရိကန် ဂီတ ပညာရှင်များ ပေါ်ပေါက် ထွန်းကား လာပြီးလျှင် အမေရိကန် ဂီတ စည်ပင်ဖွံ့ဖြိုးရေးအတွက် ဆောင်ရွက်ကြလေသည်။

နှစ်ဆယ်ရာစုခေတ်အတွင်း၌ ဂီတတိုးတက်မှုသည် အထူးကျယ်ပြန့်လာသည်။ ဓာတ်စက် ဓာတ်ပြားများ တီထွင်အောင်မြင်ခဲ့သဖြင့် ဂီတပညာ ပြန့်ပွားရေးသည် လျှင်မြန်လာသည်။ တနိုင်ငံမှ ဂီတသည် အခြား နိုင်ငံများသို့ ကူးစက် ပျံ့နှံ့လွယ်ခဲ့သည်။ တိုးတက်သော နိုင်ငံတိုင်းတွင် အသံလွှင့်ရုံများရှိ၍ ယင်းတို့မှ တူရိယာ သံစုံ တီးဝိုင်းကြီးငယ်တို့သည် သီချင်းကြီး သီချင်းခန့်၊ တေး အယဉ်အနု၊ သံရိုး သံဆန်း အမျိုးမျိုးတို့ကို ကမ္ဘာ လွှမ်းသွားအောင် အသံလွှင့်ပေးလျက် ရှိကြလေသည်။

အရှေ့တိုင်း ဂီတသည် အနောက်တိုင်း ဂီတနှင့် မတူ၊ မူအားဖြင့် ကွာခြားပေသည်။ မြန်မာနိုင်ငံ အပါအဝင် ဖြစ်သော အရှေ့နိုင်ငံများ၏ ဂီတသည် အနောက်တိုင်း ဂီတကဲ့သို့ သီဆို တီးမှုတ်ရာ၌ စည်းကမ်းဘောင်သတ်၍ ထားခြင်း မရှိပေ။ အရှေ့တိုင်းသားတို့၏ သီချင်းများကို သီဆိုသူသည်၎င်း၊ တီးမှုတ်သူသည်၎င်း နာရီ စည်းဝါး အတွင်း၌ ကွန့်ချင်တိုင်း ကွန့်၍ ဆိုနိုင်သည်။ ညှန့်ချင်တိုင်း ညှန့်၍ တီးနိုင်သည်။ ဆိုသူ တီးသူတို့၏ ပင်ကိုယ်အစွမ်းအစကို ဖော်ထုတ်နိုင်ခွင့်ရှိသည်။ ထိုပြင် အနောက် တိုင်းရင်းသားတို့၏ ဂီတသည် အသံ၏ ထုထည်အပေါ်တွင် နားအရသာ ယူသည်။ အလင်းနှင့် အမှောင်ကို အသားပေးကာ ဆေးအတုံးလိုက် အတစ်လိုက် ရေးဆွဲသော ပန်းချီကားမျိုးကို အနောက်တိုင်းသားတို့ နှစ်သက်သကဲ့သို့တည်း။ အရှေ့တိုင်းသားတို့၏ ဂီတသည် ခြူးပန်း ခြူးခက်များဖြင့် တန်ဆာဆင်ထားသော အရှေ့တိုင်းဆန်ဆန် ပန်းချီကားကဲ့သို့ အသံ၏ အတွန့်အလိမ် အကွေ့အဝိုက်ကလေးများပေါ်တွင် မူတည်၍ အရသာ ဖော်ထားသည်။ သံစဉ်များ၌လည်း အခြေခံအားဖြင့် အနောက်တိုင်းဂီတ၌ သံစဉ် ၁၂ မျိုးရှိသော်လည်း အိန္ဒိယ၊ အာရပ်၊ မြန်မာ၊ ယိုးဒယား၊ ဂျာဗား စသော နိုင်ငံများသည် သံစဉ် ခုနစ်မျိုးကို သုံးသည်။ တရုပ်တို့ကမူ သံစဉ် ငါးမျိုးသာ သီဆိုတီးမှုတ်ခဲ့ကြသည်။ ဂျပန်ဂီတသည် တရုပ်ဂီတမှ ဆင့်ပွားခဲ့ခြင်း ဖြစ်လေသည်။

နှစ်ဆယ်ရာစုနှစ်သို့အကူးတွင်စက်မှုထွန်းကား၍ ရေကြော၊ မြေကြော၊ လေကြော ရှုံ့နိုင်သော ခေတ်ဖြစ်၍ တနိုင်ငံ၏ ဂီတသည် အခြားနိုင်ငံများသို့ ပျံ့နှံ့လွယ်ခဲ့သည်။ အနောက်တိုင်း နိုင်ငံ အများအပြား ဘုန်းကြီးသော ခေတ်ဖြစ်၍ အနောက်တိုင်း ဂီတသည် အရှေ့တိုင်းသို့လည်း ရောက်ရှိလာသည်။ ဂီတသံတွင်၎င်း၊ တူရိယာများတွင်၎င်း အနောက်တိုင်းမူစံနစ်နှင့် ပစ္စည်းများကို အများအပြား အသုံးပြုခဲ့ကြသော်လည်း အရှေ့တိုင်းမူရင်းသည် ပျောက်ပျက် မသွားခဲ့ချေ။ အရှေ့တိုင်းသားတို့သည် မိမိတို့၌ နှစ်ပေါင်းထောင်နှင့်ချီ၍ ရှိနှင့်ခဲ့ပြီဖြစ်သော မိမိတို့၏ဂီတသည် ပြည့်စုံပြီးဖြစ်သည်ဟု ယူဆ၍ နှစ်သိမ့်ကျေနပ်မှုရှိခဲ့ကြသည်။ ထိုပြင် အနောက်တိုင်း ဂီတကို လက်ခံသိမ်းသွင်းခဲ့ကြသော်လည်း များသောအားဖြင့် မိမိတို့၏ မူရင်းဂီတတွင် ထည့်သွင်း၍ ယူလေ့ မရှိကြပဲ သီးခြားထားခဲ့ကြသဖြင့် မူရင်းသည် ဤမျှကြာမြင့်အောင် မတိမ်ကောပဲ တည်တံ့နေနိုင်ခြင်း ဖြစ်ဟန် တူပေသည်။ ယခု တရုပ်နိုင်ငံတွင်၎င်း၊ ဂျပန်နိုင်ငံတွင်၎င်း ခေတ်ဟောင်းဂီတ၊ ခေတ်သစ်ဂီတ နှစ်မျိုးလုံးကို တသီးတခြားထား၍ လေ့လာလိုက်စားအသုံးပြုလျက်ရှိကြသည်။

ဂီတကို တခေတ်ပြီးတခေတ် ဆန်းသစ်တီထွင်၍ အဆင့်အတန်းမြင့်သော အနုပညာတရပ်အဖြစ် တိုးတက်ဆောင်ရွက်ခဲ့ကြခြင်းမှာ ဂီတ၌ ထူးကဲထက်မြက်သော တန်ခိုးအာနိသင် ရှိခြင်းကြောင့် ဖြစ်ပေသည်။

ဂီတသည် လူတို့၏စိတ်ကို ဆွဲဆောင်နိုင်စွမ်း ရှိသည်။ ဂီတသည် လူတို့ နှစ်သက်မြတ်နိုးဆုံးသော အနုပညာတရပ်ဖြစ်သည်။ အကြောင်းရပ်တခုကို လူတို့ နားဝင်နိုင်အောင် သာယာနာပျော်ဖွယ်ရာ အသံတို့ဖြင့် နားသွင်းနိုင်သည်။ တိုတိုနှင့် လိုရင်းရောက်သော စကားလုံးတို့ဖြင့် ဆိုလိုချက်ကို တင်ပြနိုင်သည်။ ထိုကြောင့် ဂီတကို နေရာများစွာ၌ အသုံးချကြသည်။ ကလေးသူငယ်များကို ပညာသင်ကြားရေး၌ ကလေးများ၏ စိတ်ပါဝင်စားမှု ရရှိရန် ဂီတကို အသုံးပြုကြ

ရသည်။ ဘာသာအယူဝါဒရေးရာ၌လည်း သီဆိုတီးမှုတ်ကခုန်မှုတို့ဖြင့် ပူဇော်ပသခြင်းတို့ကို ရှေးပဝေသဏီကပင်ပြုခဲ့ကြသည်။ ခရစ်ယန် အယူဝါဒ၌ ဓမ္မသီချင်းများသည် အရေးပါ အရာရောက်လှပေသည်။ အမျိုးသားစိတ်နှင့် ဇာတိသွေးဇာတိမာန်တက်ကြွရန် လှုံ့ဆော်ပေးရာ၌ သီချင်းများသည် ထက်မြက်သော လက်နက်များ ဖြစ်သည်။ ဝါဒဖြန့် လုပ်ငန်းများ၌လည်း သီချင်းများသည် ထိရောက်လှပေသည်။ ဝါဒဖြန့်စကားများကို နားဝင်မှ ဝင်မည်ဖြစ်သော်လည်း ဂီတအရသာပြည့်ဝသော ဝါဒဖြန့် သီချင်းသည် နားဆင်သူ၏ သောတအာရုံ၌ စွဲကပ်၍ ကျန်ရစ်နိုင်သည်။

ဂီတကို ခေတ်မှီစွာအသုံးချပုံများရှိသေးသည်။ အလုပ်ရုံစက်ရုံများ၌ တေးသီချင်းများဖြင့် ဖျော်ဖြေပေးခြင်းအားဖြင့် လုပ်သားတို့ အားတက်ရွှင်လန်းမှုကြောင့် လုပ်အားပိုမိုရရှိကာ ထွက်ကုန်ပိုလာသည်ဟုဆိုသည်။ ထိုစနစ်ကို ၁၉၄၄ ခုနှစ်၌ စတင် စမ်းသပ်ခဲ့ရာ အောင်မြင် ထိရောက်ကြောင်း သိရလေသည်။ တေးဂီတသံများကြောင့် သစ်ပင် ပန်းပင်များ ပိုမို ကြီးမားသန်စွမ်းလာကြောင်းကို အိန္ဒိယနိုင်ငံ ပွန်ဒီချယ်ရီ ပြည်နယ်၊ လယ်ယာစိုက်ပျိုးရေးဌာနက သိပ္ပံနည်းကျကျဖြင့် လေ့လာစမ်းသပ်ရာမှ တွေ့ရှိခဲ့လေသည်။ အမေရိကန် ပြည်ထောင်စု ကာလီဖိုးနီးယား ပြည်နယ်စသော အချို့ဒေသတို့၌လည်း ဂီတသံသည် အပင်တို့ကို ဖွံ့ဖြိုးအောင်မြင်စေ၍ အသီးအနှံပိုမိုထွက်စေနိုင်ကြောင်းကို အမှတ်မထင် စမ်းသပ် တွေ့ရှိခဲ့ကြလေသည်။

တေးဂီတ၏အစွမ်းသည် ထိုမျှသာမကသေးချေ။ မကျန်းမာနေသော လူနာများကို တေးဂီတဖြင့် ကုစားခဲ့ခြင်းလည်း ပြုကြသည်။ ဒုတိယ ကမ္ဘာစစ်ကြီး အတွင်းက ထိခိုက် ဒဏ်ရာရရှိသော စစ်သည်ရဲမက်များအား ဆေးရုံများတွင် တေးဂီတများဖြင့် ဖျော်ဖြေ၍ သက်သာမှု ရအောင် ပြုခဲ့ကြလေသည်။

တေးဂီတကား ထက်မြက်သော တန်ခိုး အာနိသင်ဖြင့် ဤမျှပင် ပြည့်စုံပေသည်။ တေးဂီတလောကသည် တဖြည်းဖြည်း ကျယ်ပြန့်သည်ထက် ကျယ်ပြန့်လာသည်။ တိုင်းပြည်တပြည်၊ လူမျိုး တမျိုး၏ ဂီတကို အကဲခတ်ကာ ယင်း၏ယဉ်ကျေးမှု အဆင့်အတန်းကို အကဲခတ်နိုင်ကြပေသည်။ ထို့ကြောင့် ''ဂီတသာလျှင် လူမျိုးလည်းသာသည်။ ဂီတချာလျှင် လူမျိုးလည်းချာသည်'' ဟု အချို့က ဆိုကြလေသည်။

**သီတင်းကျွတ်လ။** ။သီတင်းကျွတ်လသည် မြန်မာလများတွင် သတ္တမလ ဖြစ်၏။ မိုးဥတုတွင် ပါဝင်သည်။ ရှေးအခါက သီတင်းကျွတ်လဟူ၍ မခေါ်ကြပဲ သန်တူလဟု ခေါ်ဆိုရေးသားကြသည်ကို တွေ့ရသည်။ သန်တူလအဓိပ္ပါယ်မှာ ဝဿာန မိုးဥတုရာသီကို သန့်ဟူ၍ ရှေးသူဟောင်းတို့ ခေါ်ကြသည်ဟု ဝေါဟာရလီနတ္ထဒီပနီကျမ်း၌ ဆိုသည်။ သီတင်းကျွတ်လသည် မိုးဥတု၏ နောက်ပိုင်းချိန် လတခု ဖြစ်လေသည်။

အချို့ပညာရှင်တို့ကမူ သန်ဟူသော ပုဒ်သည် ကောက်-စပါး ဟော တိဗက်-မြန်မာ-တရုပ်-ထိုင်း-မွန်ခမာ ဘာသာအပေါင်းတို့လာ မြန်မာစကားဟု ဆိုသည်။ တူ ပုဒ်သည်လည်း အသံချင်းအနီးစပ်ဆုံးဖြစ်သော ထူ ပုဒ်နှင့် တွဲယူရပေမည်။ ထူသည် တစုံတရာကို ဆောင်သည်၊ စိုက်သည်၊ မတ်စေသည်ဟော ဖြစ်သဖြင့် သန်တူလသည် ကောက်စပါးပင်များ ပေါက်ဖွား၊ ထွက်ထ၊ ထောင်မတ်လာသော လ ဟု အဓိပ္ပါယ်ရသည် ယူဆကြသည်။

ပုဂံခေတ်ထိုး ကျောက်စာတို့တွင် သီတင်းကျွတ်ဟူသော စကားကို အလျှင်း မတွေ့ရသလောက်ပင် ရှိ၍ သက္ကရာဇ် ၅၇၄ ခုနှစ်ထိုး တုရွင်းတောင် စောရဟန်သိမ် ကျောက်စာအတွင်းစာသားတနေရာ၌သာ သတင်းချွတ် ဟူသောအသုံးကို ရှေးဦးဆုံး တွေ့ရလေသည်။ သတင်းချွတ်ဟူသောစကားသည် သတင်းသီလစောင့်ထိန်းသူတို့က ချွတ်လွတ်ကုန်ဆုံးအောင်ပြုသည် ဟုအနက်ထွက်လေသည်။ သတင်းချွတ်နှင့် ဝါကျွတ်ဟူသောစကားကို ဖက်တွဲ၍ သီတင်းကျွတ်ဟူသောစကား ဖြစ်ပေါ်လာသည်ဟု တွေးထင်ဖွယ်ရှိသည်။

လေ့သင်းအတွင်းဝန် ရေး ဝေါဟာရလီနတ္ထ ဒီပနီကျမ်း၌ 'သီတင်းကျွတ်လ ခေါ်ဆိုသည်မှာ ဝါဆိုလပြည့်နေ့မှ စ၍ ဝါတွင်း သုံးလ၊ရက်ပေါင်း ၉၀၊ သီတင်းကျွတ်လပြည့်ကျော် တရက်နေ့ သီတင်းကျွတ်သောကြောင့် သီတင်းကျွတ်လ ဟူ၍ သာသနာကျမ်းအလို ခေါ်ဆိုကြောင်း သိသာသည်' ဟု ပါရှိလေသည်။

ဗေဒင်အခေါ်အားဖြင့် သီတင်းကျွတ် လကို တူရာသီ ဟု ခေါ်သည်။ တူရာသီ၏ အရုပ်သည် ချိန် ကိုင်စွဲသော ယောကျ်ား သဏ္ဌာန် ဖြစ်သည်။ ထိုရာသီကား အဿဝဏီနက္ခတ်နှင့် ယှဉ်၍ လပြည့်သောကြောင့် အဿယုဇ ဟူ၍ ဆိုသည်။ ကြာပန်းကို ရာသီပန်းအဖြစ် အသိအမှတ်ပြုကြ၏။

ကျီးတာရာ ထွန်းပသည့် သီတင်းကျွတ်လ ရာသီတွင် နံနက်စက်နာရီ ၅ နာရီ ၅၅ မိနစ်ခန့်တွင် နေထွက်၍ ညနေစက်နာရီ ၅ နာရီ ၃၇ မိနစ်ခန့်တွင် နေဝင်သည်။ မြန်မာနာရီအားဖြင့် နေ့ည၌နာရီ ၃၀ စီ အညီအမျှ ရှိလေသည်။

သီတင်းကျွတ်လတွင် မြတ်စွာဘုရားသခင် နတ်ပြည်မှ ဆင်းသက်ခဲ့ဘူးသည်ကို အကြောင်းပြု၍ မီးစောင်းတန်း၊ မီးမြင့်မိုများထွန်းညှိကာ မီးပွဲသဘင်ကို ဆင်ယင်ကျင်းပကြရိုးဖြစ်လေသည်။ (ဆဲနှစ်ရာသီပွဲတော်များ — လည်းရှု။) မြန်မာမင်းများလက်ထက် ခေတ်အခါကမူ သီတင်းကျွတ်လတွင် မင်းသားမင်းမြေး မှူးတော်မတ်တော်တို့၏ အဆင်တန်



သီတင်းကျွတ်လပြည့်နေ့တွင် ဘုရားစေတီများသို့ သွားရောက်၍ ဆီမီးပူဇော်လေ့ ရှိကြသည်။

ဆာများကို အသစ်လဲလှယ်ပေးတော်မူခြင်း၊ လက်ဆောင်တော်များကို ကြည့်ရှုတိုင်းထွာစေခြင်း၊ ဆီမီးမြင့်မို့ ထွန်းခြင်း၊ ဘုရားစေတီများတွင် ဆီမီးပူဇော်ခြင်း၊ ဝါကျွတ်အကန်တော့ခံခြင်းတို့ကို ပြုသည်။ ထိုကြောင့် ဖိုးသူတော်ဦးမင်း၏ ဆဲ့နှစ်ရာသီဘွဲ့ သဖြန့်၌—

"ကြာငါးမည် ကြိုင်သင်းလို့၊ လျှံဝင်းတဲ့ ပြောင်ထိန်။
ရွှေနန်း တောင်တော်ဦးမှာလ၊ ကွန့်မြူးမြင့်မိုမီး ညီးတဲ့
ခါချိန်။ ရှိခိုးငယ်နှိမ်၊ သုံးကြိမ် ရိုပြောင်း။ သက္ကစ္စ
ဂါရဝါနှင့်၊ စဉ်အလာ ပူဇော်ပွဲကို၊ ခဲကြပေတောင်း"

ဟု စပ်ဆိုထားခြင်း ဖြစ်လေသည်။

သီတင်းကျွတ်လတွင် တနင်္ဂနွေနှင့် တနင်္လာ နေ့များသည် ပြဿဒါးရက်များ ဖြစ်ကြ၍ အင်္ဂါနှင့် ကြာသပတေးနေ့များသည် ရက်ရာဇာများဖြစ်ကြသည်။ သီတင်းကျွတ်လတွင် ရက်မစုံကွယ်သဖြင့် ရက်ပေါင်း ၂၉ ရက်သာရှိ၏။

**သီတင်းကျွတ်လပြည့်နေ့။** ။သီတင်းကျွတ် လပြည့်နေ့သည် ဗုဒ္ဓအယူဝါဒီတို့အတွက် နေ့ထူးနေ့မြတ်ကြီး တနေ့ဖြစ်သည်။ ကဆုန်လပြည့် ဗုဒ္ဓနေ့၊ ဝါဆိုလပြည့် ဓမ္မစကြာအခါတော်နေ့တို့ကဲ့သို့ပင် သီတင်းကျွတ် လပြည့်နေ့သည်လည်း မြတ်စွာဘုရားသခင် တာဝတိံသာ နတ်ပြည်မှ သင်္ကဿနဂိုရ် ပြည်သို့ ကြွမြန်း ဆင်းသက်တော်မူလာသည့် နေ့ ဖြစ်သဖြင့် ထူးမြတ်သောနေ့အဖြစ် အသိအမှတ် ပြုကြသည်။ မြတ်စွာဘုရား ဆင်းသက်ကြွမြန်းလာသည်ကို ရည်၍ ဘုရားသခင်အား ပူဇော်သည့်အနေဖြင့် ထိုနေ့တွင် မီးများထွန်းကာ မြင့်မိုပွဲ ဆင်ယင်ကျင်းပခဲ့ကြသည်။

မြတ်စွာဘုရားသခင်သည် တာဝတိံသာနတ်ပြည်၌ မယ်တော်ဖြစ်ဘူးသောသန္တုဿိတနတ်သားကို အကြောင်းပြု၍ 'ကုသလာဓမ္မာ၊ အကုသလာဓမ္မာ၊အဗျာကတာဓမ္မာ' အစရှိသည်ဖြင့် အဘိဓမ္မာခုနစ်ကျမ်းကို ဟောတော်မူပြီးနောက် သီတင်းကျွတ်လပြည့်နေ့တွင် တာဝတိံသာ၌ ပဝါရဏာပြု၍ လူ့ပြည်သို့ သက်ဆင်းတော်မူသည်ကို အကြောင်းပြုလျက် ထိုနေ့ကို အဘိဓမ္မာနေ့ဟူ၍ သမုတ်ကာ အဘိဓမ္မာပူဇော်ပွဲ ကျင်းပကြလေသည်။

တနည်းအားဖြင့်လည်း သီတင်းကျွတ် လပြည့် နေ့ကို ဘုရားဆုပန်နေ့ဟု ခေါ်နိုင်လေသည်။ အဘယ်ကြောင့် ဆိုသော် မြတ်စွာဘုရားသည် တာဝတိံသာမှ ဆင်းသက်လာသောအခါ ကိုယ်တော်တိုင် ပတ္တမြားစောင်းတန်းဖြင့် ဆင်း၍ လကျ်ာဖက်ရွှေစောင်းတန်းဖြင့် နတ်တို့ ခြံရံလိုက်ပါကာ လက်ဝဲဖက်ငွေစောင်းတန်းဖြင့် ဗြဟ္မာမင်းတို့ ခြံရံလိုက်ပါလာလေသည်။ ထိုသို့နတ်ဗြဟ္မာမင်းတို့ ခြံရံလိုက်ပါလာ၍ သက်ဆင်းတော်မူလာသည့် မြတ်စွာဘုရား၏တင့်တယ်သောအသရေတော်ကို ဖူးမြင်ကြရသောအခါ ၃၆ ယူဇနာအတွင်း၌ ရှိသော ပရိသတ်အားလုံးပင် ဘုရားဆုကို တောင်းကြသည်။ တယောက်သောသူမျှ ဘုရားဆုကိုမတောင်းသူဟူ၍ မရှိချေ။ ဤသည်ကို ရည်၍ ဘုရားဆုပန်နေ့ဟု ခေါ်ထိုက်ခြင်းဖြစ်လေသည်။

မြတ်စွာဘုရား သက်ဆင်းတော်မူသည်ကို ဖူးမျှော်ရန် စောင့်နေကြသော လူအပေါင်းတို့ တောင်းပန်သဖြင့် ရှင်မဟာမောဂ္ဂလာန်က ဘုရားသခင်အား မည်သည့်အခါ မည်သည့်အချိန်၌ လူ့ပြည်သို့ သက်ဆင်းမည်ကို လျှောက်ထားသောအခါ ဘုရားသခင်က ငါဘုရားကို ဖူးမြော်လိုသူတို့သည် ရွာဦးကျောင်းသို့ ဥပုသ်သည်များ တရားနာ သွားသကဲ့သို့ လာခဲ့ကြရမည်ဟု မိန့်ကြားတော်မူသည်ကို ရည်၍ ထိုနေ့ ထိုရက်၌ ဥပုသ်သီတင်း ဆောက်တည် ကြခြင်း ဖြစ်သည်။

မြတ်စွာဘုရားသခင်သည် လူ့ပြည်သို့မဆင်းမီ တာဝတိံသာ နတ်ပြည်၌ ရေအစုံမီးအစုံ တန်ခိုးပြာဋိဟာ ပြတော်မူသည်။ မြတ်စွာဘုရား၏ တန်ခိုးတော်အားဖြင့် စကြဝဠာတခုလုံးသည် ဟင်းလင်းအပြင်ဖြစ်သွားလေသည်။ ရှင်တော်ဘုရား၏ လောကဝိဝရဏ တန်ခိုးတော်အားဖြင့် လူနတ်ဗြဟ္မာ ငရဲသားအားလုံးတို့သည် တဦးကိုတဦး ထင်ရှားစွာ တွေ့မြင်ရလေသည်။

သီတင်းကျွတ်လပြည့်နေ့သည် ဝါတွင်းသုံးလ၏ နောက်ဆုံးနေ့ဖြစ်သဖြင့် ဝါဆိုတော်မူကြကုန်သော သံဃာတော်မြတ်တို့ လွတ်လွတ် ကျွတ်ကျွတ် သွားလာသီတင်းသုံးနိုင်သည့် အခွင့်အရေးကို ရရှိကြလေသည်။ ဤနေ့အထိ ဝါဆိုကြသည့် သံဃာများသည် အလွန်မြတ်သော ကထိန်အလှူကို ခံယူထိုက်သော အခွင့်အရေးကို ရရှိကြသည်။ လောကီလူတို့၏ထုံးစံအရလည်း အိမ်ယာထောင်ခြင်းပြုနိုင်ကြသဖြင့် အချုပ်အချယ်တို့မှ လွတ်ကျွတ်စေသောနေ့ဟု ဆိုရပေမည်။

အချုပ်အားဖြင့်ဆိုသော် သီတင်းကျွတ်လပြည့်နေ့သည် ရဟန်းတော်များ ဝါမှ ထသောနေ့၊ ပဝါရဏာပြုကြသောနေ့၊ မြတ်စွာဘုရားသခင်သည် တာဝတိံသာ၌ အဘိဓမ္မာ တရားတော်ကို ဝါတွင်းသုံးလပတ်လုံး ဟောကြားတော်မူသည်မှာ အောင်မြင်စွာ ပြီးဆုံးသောနေ့ (ဝါ) အဘိဓမ္မာ အခါတော်နေ့၊ နတ်ဗြဟ္မာအပေါင်း ခြံရံလျက် တာဝတိံသာမှ သင်္ကဿနဂိုရ်ပြည်သို့ ဆင်းသက်တော်မူသောနေ့၊ ဗြဟ္မာ နတ်လူ သုံးဘုံသူတို့ မြတ်စွာဘုရားအား အတုတကွ ကြည်ဖြူကော်ရော် ပူဇော်ကြသောနေ့၊ လောကဝိဝရဏ တန်ခိုးတော်ကြောင့် စကြဝဠာတဝှန်းလုံးကို တိုးယှဉ်ပေါက် မြင်ကြရသောနေ့ စသော ဂုဏ်ထူး ဝိသေသ အထူးထူးနှင့် ပြည့်စုံသောနေ့ဖြစ်သည်။

**သီပေါနယ်။** ။ ရှမ်းစော်ဘွားများ အာဏာမစွန့်လွှတ်မီ(၁၉၅၉ ခုနှစ် မတိုင်မီ) ကာလက သီပေါနယ်သည် ပြည်ထောင်စုမြန်မာနိုင်ငံ ရှမ်းပြည်မြောက်ပိုင်း၏ နယ်ကြီး တနယ်ဖြစ်သည်။ ထိုနယ်ကြီးသည် ၄,၅၉၁ စတုရန်းမိုင် ကျယ်ဝန်း၍ လူဦးရေ ၁၇၉,၉၆၄ ယောက် ရှိခဲ့သည်။ ထိုနယ်၏နယ်နိမိတ်တို့မှာ မြောက်ဖက်တွင်ပတ္တမြားနယ်မြေ၊ မိုးမိတ်နယ်၊ တောင်ပိုင်နယ်တို့ရှိ၍ အရှေ့ဖက်တွင် မြောက်နှင့်တောင် သိန္နီနယ်၊ တောင်ဖက်တွင် တောင်ပိုင်းရှမ်းပြည်နယ်၏ နယ်များရှိပြီးလျှင် အနောက်ဖက်တွင် မန္တလေးခရိုင် ရှိလေသည်။

သီပေါနယ်တွင် သီပေါနယ်မ၊ သုံးဆယ်၊ မိုင်းလုံနှင့် မိုင်းတုံဟူသော နယ်ငယ်လေးခုပါဝင်သည်။

သီပေါနယ်သည် ဂုတ်ထိပ် ချောက်ကြီးမှသည် သံလွင်မြစ်ကမ်းပေါ်ရှိ ကွမ်းလုံ ကူးတို့ဆိပ်တိုင်အောင် အရှေ့မှ အနောက်သို့ တန်းလျက် ဖြစ်ပေါ်နေသော မြေလွှာပြတ်လွဲကြောင်းတွင် တည်ရှိသဖြင့် ချိုင့်ဝှမ်းဖြစ်နေသည်။ ထိုကြောင့် သီပေါနယ်၏ မြေမျက်နှာပြင်တခုလုံးသည် ပျံ့ပျံ့ပျူးပျူး မရှိပဲ၊ တောင်စွယ် တောင်နှာမောင်းများလည်း များပြားလှပေသည်။ မြေနိမ့်မြေပြန့်ဟူ၍ သီပေါမြို့ ပတ်ဝန်းကျင် ပြောင်ခေါင်းနှင့် နောင်ပိန်အနီးအနားရှိ မြစ်ဝှမ်း ချောင်းဝှမ်းတို့၌သာ တွေ့ရလေသည်။

ဒုဋ္ဌဝတီ ဟူ၍ရှင်း၊ မြစ်ငယ်ဟူ၍ရှင်း ခေါ်ဆိုကြသော နမ္မတူမြစ်သည် သီပေါနယ်အတွင်း ဖြတ်သန်း စီးဆင်းသွားရာ တောင်ဖက် နယ်နိမိတ်တွင် ပေ ၂,၀၀၀ ခန့် နက်သော ကမ်းပါး စောက်ကြီးများကို ဖြစ်ပေါ်စေသည်။ နမ္မတူမြစ်သည် နေရာများစွာ၌ ရေစီးလျှင်မြန်၍ မြစ်အတွင်း၌ ကျောက်ဆောင်ကျောက်တန်းများရှိသဖြင့်အချို့နေရာများတွင်သာ လှေများဖြင့် သွားလာနိုင်သည်။ သို့သော်သီပေါမြို့ အထက်နားမှ သစ်များမျှောချရန်မှု အသုံးဝင်လေသည်။

သီပေါနယ်၏မြောက်ဖက်ပိုင်းသည် တောင်ကုန်းထူထပ်၍ ပေ ၆,၀၀၀ ကျော်မြင့်သော နေရာများစွာ ရှိသည်။ မိုင်းလုံနယ်အတွင်းရှိ လွယ်ပန်တောင်ထွတ်သည် ပေ ၆,၇၄၄ မြင့်၍ လွယ်ဆည် တောင်ထွတ်သည် ပေ ၆,၂၇၀ မြင့်လေသည်။

သီပေါနယ်၏ မြေမျက်နှာပြင်သည် ဆိုခဲ့သည့်အတိုင်း မြေလွှာပြတ်လွဲကြောင်းတွင် တည်ရှိ၍ ချိုင့်ဝှမ်းကဲ့သို့ ရှိနေသဖြင့် သံလွင်မြစ်ဝှမ်းမှ လွဲလျှင် ရှမ်းပြည်နယ်တွင် အပူအိုက်ဆုံးဒေသ ဖြစ်သည်။ ဧပြီလ အပူဆုံးအချိန်၌ ပျမ်းမျှအပူချိန် ဖာရင်ဟိုက် ၉၆ ဒီဂရီအထိတက်၍ ညဥ့်ဖက်တွင် ၆၅ ဒီဂရီ အထိ ကျဆင်းတတ်ပြန်သည်။ ဆောင်းရာသီအခါ နေထွက်ပြီး နာရီအနည်းငယ်ကြာသည့်တိုင်အောင် မြူများဆိုင်းနေတတ်သည်။ သီပေါနယ်၏ မိုးရေချိန်ကို အတိအကျ မသိရသော်လည်း မိုးရေချိန်လက်မ ၆၀ ကျော် ရရှိသော လားရှိုးမြို့ထက် သီပေါမြို့က မိုးနည်းပါးသည်။ နွေရာသီ၌ အပူအအေး အလွန်ကွာခြားခြင်း၊ ဆောင်းရာသီ၌ မြူဆိုင်းတတ်ခြင်းကြောင့် သီပေါနယ်၏ ရာသီဥတုသည် ကျန်းမာရေးနှင့် မညီညွတ်လှချေ။

သီပေါနယ်အတွင်း၌ နေထိုင်ကြသူ အများစုမှာ ရှမ်းလူမျိုးများဖြစ်သည်။ သီပေါနယ်မ ရှိ ကိုးတောင်ခရိုင်တွင် ပလောင်လူမျိုးများ များပြား၍ မိုင်းလုံနယ် တောင်ကုန်းဒေသနှင့် မိုင်းတုံနယ် မြောက်ပိုင်း တောင်ကုန်းဒေသများ၌လည်း တွေ့ရသည်။ မိုင်းလုံနယ်ထဲတွင် တောင်သူရွာများ၊ ကချင်ရွာများလည်း ရှိသည်။ သုံးဆယ်နယ် အတွင်း၌မူ ဓနုလူမျိုးများသည် လူများစုဖြစ်၍မြန်မာလူမျိုးများလည်း အတော်အသင့် တွေ့ရသည်။ ဆန်စပါး စသော ကောက်ပဲသီးနှံ စိုက်ပျိုးရေးသည် နယ်လူထု၏ အဓိကလုပ်ငန်းဖြစ်လေသည်။

သီပေါနယ်တွင် အဓိကစိုက်ပျိုးလုပ်ကိုင်သောကောက်ပဲသီးနှံမှာ ဆန်စပါးဖြစ်သည်။ ကုန်းမြင့်တောင်စောင်းများတွင် တောင်ယာစံနစ်ဖြင့် စိုက်ပျိုး လုပ်ကိုင်ကြ၍ မြစ်ဝှမ်းမြေနိမ့် မြေပြန့်များတွင် ကန်သင်းဖို့၍ စိုက်ပျိုးကြသည်။ သီပေါနယ်၌ အခြားစိုက်ပျိုးလုပ်ကိုင်ကြသော ကောက်ပဲသီးနှံတို့မှာ နှမ်း၊ ဝါဂွမ်း၊ ချင်း၊ ကြက်သွန်၊ ပဲအမျိုးမျိုးနှင့် ဟင်းသီးဟင်းရွက်များဖြစ်ကြလေသည်။

ဆေးပေါ့လိပ်လုပ်ငန်းတွင် အသုံးပြုရသော သနပ်ဖက်ရရှိသည့် သနပ်ခြံများကို သီပေါအနောက်ခရိုင်၏ တောင်ဖက်နယ်စပ်များ၌ တွေ့ရှိရ၍ အရှေ့ခရိုင်အတွင်း၌လည်း အနည်း အကျဉ်း ရှိလေသည်။ သို့သော် သုံးဆယ်နယ်မှ ထွက်သော သနပ်ဖက်များက ပို၍ အမျိုးအစား ကောင်းလေသည်။

သီပေါမြို့၏အနောက်ဖက် ကိုးတောင်နှင့် မိုင်းလုံနယ် တောင်ကုန်း ထူထပ်သော ဒေသများတွင် ပလောင်လူမျိုးများသည် လက်ဖက်ပင်များကို စိုက်ပျိုး လုပ်ကိုင်ကြ၍ သီပေါနယ်တွင် လက်ဖက်လုပ်ငန်းသည် အတော်အသင့် ဖွံ့ဖြိုးလေသည်။

သီပေါနယ်အတွင်း ကျွန်းတောဧရိယာ ၁၈၁ စတုရန်းမိုင်ရှိခဲ့ရာ ကိုင်းကြီးသစ်တောကြိုးဝိုင်းသည်အကြီးဆုံးဖြစ်၍ ၁၂၁ စတုရန်းမိုင် ရှိသည်။ နမ္မတူကြိုးဝိုင်းသည် စတုရန်းမိုင် ၅၀ ခန့်သာရှိသည်။ ဘုံဘေဘားမား ထရိတ်ဒင်ကုမ္ပဏီသည် ထိုသစ်တောကြီးများမှ သစ်ထုတ်ရေးကို လုပ်ကိုင်ခဲ့ရာ အရွယ်သင့် ကျွန်းပင်များ အတော် နည်းပါးသွားခဲ့လေသည်။

မိုင်းတုံနယ်တွင် ထင်းရှူးတောကြီးများရှိ၍ ကိုးတောင်နှင့် မိုင်းလုံ တောင်ကုန်းများတွင်လည်း ထင်းရှူးတော အနည်းငယ် တွေ့ရသည်။ သစ်ချ၊ ဝေသိန္နီနှင့် အင်ကြင်းပင်များလည်း ပေါက်ရောက်၍ သစ်စေးပင်များကို မိုင်းလုံတောင်ပိုင်း၌ များသောအားဖြင့် တွေ့ရလေသည်။

သီပေါနယ်၏ တွင်းထွက်သတ္တုများအနက် ကျောက်မီးသွေးကို သီပေါအရှေ့ခရိုင်နှင့် သီပေါမြို့၏ တောင်ဖက်ရှိ အရပ်ဒေသများတွင်၎င်း၊ သုံးဆယ်နယ် အတွင်း၌ ၎င်း၊ မိုင်းလုံမြို့ အနီးတွင်၎င်း တွေ့ရှိရ၍ အတော်အသင့် အသုံးပြုနိုင်သော အမျိုးအစားဖြစ်သည်။ ကြွပ်ခေါ် သတ္တုတမျိုးကို မိုင်းလုံမြို့၏မြောက်ဖက်၌ တူးဖော်ရရှိသည်။ ဘော်ကြိုရွာအနီးတွင် ဆားတွင်းများ ရှိရာ ထိုဆားတွင်းများကို လွန်ခဲ့သော နှစ်ပေါင်း ၅၀၀ ကျော် ၆၀၀ နီးပါးခန့်မှ စ၍ လုပ်ကိုင်ခဲ့သော်လည်း ထွက်တုန်း ထွက်ဆဲပင် ဖြစ်သည်။ သို့သော် ဘော်ကြိုဆားသည် အခါးအရသာပါသဖြင့် အခြားဆားများ ရနိုင်သော အရပ်ဒေသများတွင် ဘော်ကြိုဆားသည် အရောင်းမသွက်ပေ။

သီပေါနယ်၏ အခြားလုပ်ငန်းများမှာ အိမ်တွင်းမှု လုပ်ငန်းအနေဖြင့်လုပ်ကိုင်ကြသော ဖျင်ဖြူ ဖျင်နီယက်လုပ်ခြင်း၊ မိုင်းကိုင်စက္ကူ ပြုလုပ်ခြင်း၊ တောင်းများ ခြင်းများ ရက်လုပ်ခြင်းစသည်တို့ ဖြစ်ကြလေသည်။

ကူးသန်းသွားလာရေးနှင့် သယ်ယူ ပို့ဆောင်ရေးတွင် မီးရထားလမ်းနှင့် မော်တော်ကားလမ်းများကို အသုံးပြုကြသည်။မန္တလေး–လားရှိုးမီးရထားလမ်းသည် သီပေါနယ်ကို ဖြတ်သန်းသွားသည်။ မန္တလေးမှသီပေါအထိ မီးရထားလမ်းအားဖြင့် မိုင် ၁၃၀ ကွာဝေးသည်။မန္တလေး–လားရှိုး မော်တော်ကားလမ်းသည်လည်း သီပေါမြို့ကို ဖြတ်သန်းသွားရာ မန္တလေးမှသီပေါအထိ မော်တော်ကားလမ်းအားဖြင့် ၁၂၉ မိုင် ဝေးကွာလေသည်။ ဆိုခဲ့သော မီးရထားလမ်းနှင့် မော်တော်ကားလမ်းတို့ဖြင့် သီပေါနယ်သည် ပြည်မနှင့် ဆက်သွယ်ရလေသည်။ ထို့ပြင် ရှမ်းပြည်မြောက်ပိုင်းနှင့် တောင်ပိုင်းကို ဆက်သွယ်ထားသော မော်တော်ကား လမ်းမှာ သီပေါ–လွိုင်လင် မော်တော်ကား လမ်း ၁၅၇ မိုင်နှင့် သီပေါ–ကျေးသီးမန်စံ၊ ကျိုင်းတုံ–ယိုးဒယားနယ်စပ် မော်တော်ကား လမ်း ၁၈၂ မိုင်တို့ ဖြစ်သည်။ သီပေါ–နမ္မတူ ၄၂ မိုင် လမ်းခွဲလည်း ရှိသေးသည်။

သီပေါနယ်တွင်ရှိသော ဘော်ကြိုဘုရားပွဲသည် ရှမ်းပြည်နယ် တခုလုံးတွင် သာမက မြန်မာပြည်မ ဖက်၌ပါ ကျော်ကြားခဲ့သည်။ နှစ်စဉ် တပေါင်းလ၌ ကျင်းပသော ထိုဘုရားပွဲတော်၌ ယခင်က လောင်းကစားပွဲများ အလွန် ကြီးကျယ်သည်ကို အကြောင်းပြု၍ ကျော်ကြားခဲ့ခြင်း ဖြစ်လေသည်။ (ဘော်ကြိုဘုရား — ရှု။)

မြန်မာ မင်းများ လက်ထက်က သီပေါ နယ်သည် အုန်းပေါင်ပြည်ဟု ထင်ရှားခဲ့၍ နောင်အခါ အုန်းပေါင် သီပေါဟူ၍ ခေါ်တွင် လာခဲ့ရာမှ နောက်ဆုံးတွင် အုန်းပေါင် အမည် ပျောက်၍ သီပေါ ဟူသော အမည်သည်သာလျှင် တွင်၍ ကျန်လေတော့သည်။

သီပေါနယ်၏ အစပိုင်း သမိုင်းကို လေ့လာသည့် အခါ အုန်းပေါင်ပြည်ကို တကောင်းအဘိရာဇာ၏ သားတော်ငယ်

ကံရာဇာငယ်၏ အဆက်အနွယ်ဖြစ်သော ဘိန္နကရာဇ်မင်းမျိုးတို့က စတင် တည်ထောင်သည်ဟု အုန်းပေါင် ရာဇဝင်၌ ဆိုသည်။

အုန်းပေါင် ရာဇဝင် အဆိုမှာ တကောင်းပြည့်ရှင် ဘိန္နကမင်း၏ ညီတော် ဘိန္နကရာဇ်သည် တရုပ်တို့ ရန်ကြောင့် တကောင်းမှ ထွက်ပြေးလာပြီးနောက်တွင် မိုင်းမောပြည်ကို တည်ထောင်၍ ကမ္ဗောဇ မိုင်းမောတိုင်းဟု ခေါ် တွင်စေခဲ့ပြီးလျှင် ထိုမင်း၏ အဆက်အနွယ်တို့သည် မိုင်းမော၌ အစဉ်အဆက် စိုးမိုးခဲ့ကြသည်။

ထိုမင်း၏ အဆက်အနွယ်တဦးဖြစ်သော စဝ်ခွန်ခမ်းနော် (စဝ်ခမ်းစော်)သည် အုန်းပေါင်မြို့ကို သာသနာ သက္ကရာဇ် ၄၇၅ ခုနှစ်တွင် တည်ခဲ့လေသည်။ စဝ်ခွန်ခမ်းနော်၏ သားတော်ကြီးစဝ်ခွန်ခမ်းကော်သည် ခမည်းတော် လွန်သည့်အခါ အုန်းပေါင်စော်ဘွားအဖြစ် အုပ်စိုးခဲ့လေသည်။

အုန်းပေါင် စော်ဘွား အစဉ်အဆက်တို့ စိုးမိုးခဲ့ကြရာ မြန်မာမင်းတို့နှင့်လည်း အဆက်အဆံ ရှိခဲ့သည်။ မြန်မာမင်းတို့က စစ်ကူ တောင်းသည့်အခါ စစ်ကူ ပို့ပြီးလျှင် ကူညီသည်လည်း ရှိ၍ အုန်းပေါင် စော်ဘွားနှင့် မြန်မာမင်းတို့အချင်းများကာ မြန်မာမင်း၏ ပိုင်နက်ကို ဝင်ရောက် တိုက်ခိုက်ခဲ့သည်လည်း ရှိခဲ့သည်။

မြန်မာ သက္ကရာဇ် ၇၇၇–၈၀၄ ခုနှစ်တွင် အင်းဝတွင် စိုးမိုးခဲ့သော ရှမ်းမင်း သိုဟန်ဘွားသည် မြန်မာတို့အား နှိပ်စက်လွန်းသဖြင့် မင်းကြီးရန်နောင် ခေါင်းဆောင်သော မြန်မာတို့က လုပ်ကြံခဲ့သည်။ ထိုနောက်တွင် မြန်မာ မှူးမတ်တို့က မင်းကြီး ရန်နောင်အား မင်းပြုပါရန် တောင်းပန်ကြသော်လည်း မင်းကြီးရန်နောင်သည် ကိုယ်တိုင် မင်းမပြုပဲ အုန်းပေါင် စော်ဘွား စဝ်ခွန်မှိုင်း(စဝ်ခုန်မှိုင်း)ကို ချီပင့်၍ အင်းဝတွင် မင်းပြုစေသည်။ အုန်းပေါင် စဝ်ခွန်မှိုင်း လွန်လျှင် သားတော် မိုးဗြဲနရပတိသည် အင်းဝ ထီးနန်းကို ဆက်ခံသည်။ ထိုမင်း လက်ထက် စစ်ကိုင်း စည်သူကျော်ထင်နှင့် စစ်ထိုးကြရာ မိုးဗြဲနရပတိ အရေး မလှသောကြောင့် ပြည်မြို့တွင် ရောက်ရှိနေသော ဟံသာဝတီ ဆင်ဖြူများရှင် မင်းတရားထံ အလုံးအရင်းနှင့်တကွ ဝင်လေသည်။

ဆင်ဖြူများရှင် မင်းတရား(ဘုရင့်နောင်)သည် အင်းဝကို သိမ်းယူခဲ့သော်လည်း မိုးဗြဲနရပတိအား အင်းဝ ထီးနန်းကို ပြန်၍ မအပ်ပဲ မိမိ၏ညီတော် သတိုးမင်းစောကို မင်းပြုစေသည်။ နရပတိကိုမူ အကျဉ်းချထားရာ အုန်းပေါင်သို့ ထွက်ပြေးသည်။ယင်းသည်ကို အကြောင်းပြု၍ ဘုရင့်နောင် မင်းတရားသည် အုန်းပေါင်၊ သုံးဆယ်၊ မိုးမိတ်၊ မိုးကောင်း၊ မိုးညှင်းတို့ကို ချီတက် သိမ်းပိုက်သည်။ မြန်မာ သက္ကရာဇ် ၉၁၉ ခုနှစ်တွင် တကြိမ် ချီတက်၍ မိုးနဲ၊ ညောင်ရွှေ၊ ရပ်စောက်၊ မိုးဗြဲ၊ စံကား၊နောင်မွန်တို့ကို သိမ်းပိုက်ခဲ့လေသည်။

ယင်းသည်မှစ၍ အုန်းပေါင်တွင် စိုးမိုးသူ စော်ဘွားများကို မြန်မာမင်းများ၏ သဘောတူညီချက် အရသာလျှင် ခန့်ထား အုပ်ချုပ်စေရသည်။ မြန်မာ သက္ကရာဇ် ၁၀၇၆ ခုနှစ် စော်ဘွားကြီး စဝ်ဥက္ကာဇေယျ လက်ထက်တွင် အုန်းပေါင်နယ်တဝှန်း၌ မိုးခေါင်သဖြင့် ဝတ်မွတ်ခေါင်းပါးခြင်း၊ အနာရောဂါ ကျရောက်၍ လူအသေအပျောက် များခြင်းတို့ကြောင့် စော်ဘွားကြီးသည် အုန်းပေါင်မြို့ကို စွန့်ခွာပြီးလျှင် ယင်း၏ အရှေ့ယွန်းယွန်း၌ မြို့သစ်တည်ကာ စံမြန်းရသည်။ထိုမြို့သစ်ကို သီပေါဟုခေါ် တွင်ခဲ့လေ၍ နောင်ဆက်ခံ စိုးစံသော စော်ဘွားတို့သည် အုန်းပေါင် သီပေါ စော်ဘွားဟူသော ဘွဲ့ကို ခံယူခဲ့ကြရာမှ နောင်အခါ သီပေါစော်ဘွားဟူသော ဘွဲ့အမည်သည် ပို၍ တွင်ကျယ်လာလေသည်။

သီပေါစော်ဘွား စဝ်ခွန်ပေါ် ၏ လက်ထက်တွင် မိုးဗြဲသို့ တိမ်းရှောင်နေသော ဦးရီးတော် စဝ်ကြာထွန်းသည် ပုဂံမင်းအား မင်းတုန်းမင်းသားက ခြားနား ပုန်ကန်သည့် အရေးတော်တွင် မင်းတုန်းမင်းသား၏ဖက်မှ ဝင်ရောက်၍ စစ်ကူပေးခဲ့သည်။ ထိုကြောင့် မင်းတုန်းမင်းသား အထွတ်အထိပ်သို့ရောက်၍ သီပေါစော်ဘွားစဝ်ခွန်ပေါ် လည်း ကံကုန်သည့်အခါ စဝ်ကြာထွန်းကို သီပေါစော်ဘွားအဖြစ် ခန့်ထားခဲ့လေသည်။

မင်းတုန်းမင်း၏ သားတော် မြင်ကွန်းနှင့် မြင်းခုန်တိုင်တို့၏ အရေးတော် ပေါ်သည့်အခါတွင်လည်း စဝ်ကြာထွန်းကိုယ်တိုင် မိမိ၏တပ်များကို ကွပ်ကဲ၍ မင်းတရားကြီးဖက်မှ သွားရောက် ကူညီခဲ့လေသည်။

သီပေါမင်း လက်ထက်တွင်မူ စဝ်ကြာထွန်း၏ ရိုက်ရာကို ဆက်ခံသော သားတော် စဝ်ကြာခိန်းအား ဘုရင် အမျက်တော် ရှိသဖြင့် စဝ်ကြာခိန်းသည် ရန်ကုန်သို့ တိမ်းရှောင်ကာ ဗြိတိသျှ အစိုးရထံ ခိုလှုံနေရသည်။ ထိုအဘွင်း နောက်ပါ နှစ်ဦးကို သတ်မှုဖြင့် အရေးယူခံရကာ နောက်ဆုံးတွင် ကရင်နီပြည်နယ် (ယခု ကယားပြည်နယ်)၌ သွားရောက်ခိုလှုံခဲ့ရလေသည်။

အင်္ဂလိပ်များ မန္တလေးသို့ ဝင်သည့်အခါ စဝ်ကြာခိန်းသည် သီပေါသို့ ပြန်၍ မိမိနယ်ကို သိမ်းပိုက်သည်။ ခရစ် ၁၈၈၇ ခုနှစ်တွင် ရှမ်းစော်ဘွားများအနက် အင်္ဂလိပ်အစိုးရလက်အောက်သို့ ပဌမဆုံး ဝင်ရောက်ခဲ့သဖြင့် စဝ်ကြာခိန်းက သုံးဆယ်၊ မိုင်းတုံ၊ မိုင်းလုံ နယ်များကိုပါ သီပေါနယ်အတွင်းသို့ ထည့်သွင်းခဲ့သည်ကို အင်္ဂလိပ်အစိုးရကလည်း သဘောတူခဲ့လေသည်။

ထိုနယ်ငယ်များကို သီပေါစော်ဘွားသည် မြန်မာပြည်မက မြို့ပိုင် အဆင့်အတန်းရှိသော အရာရှိများဖြင့် အုပ်ချုပ်စေသည်။ သီပေါနယ်ကို စော်ဘွားကြီးသည် အမတ်ချုပ်၊ အခွန်ဝန်၊ တရားသူကြီး သုံးဦးတို့၏အကူအညီဖြင့် အုပ်ချုပ်

ခဲ့သည်။ သီပေါနယ် တခုလုံးကို တိုက်နယ် ၆၇ ခု ခွဲ၍ တိုက်နယ်တခုလျှင် သူကြီး အဆင့်အတန်းရှိသော 'ထမုံ' တယောက်စီ အုပ်ချုပ်စေသည်။ ထို စော်ဘွားကြီး အား ဆက်ခံသော သားတော် စဝ်ခဲ၏ လက်ထက်တွင်၎င်း၊ စဝ်ခဲ၏ သားတော် စဝ်အုံကြာ လက်ထက်တွင်၎င်း ထိုစံနစ် အတိုင်းပင် အုပ်ချုပ်ခဲ့လေသည်။

ရှမ်းပြည်နယ် စော်ဘွားများ အာဏာ စွန့်လွှတ်ချိန် (၁၉၅၉ ခုနှစ်)တွင် သီပေါနယ်၏ နောက်ဆုံးစော်ဘွားမှာ စဝ်ကြာဆိုင်ဖြစ်သည်။ စဝ်ကြာဆိုင်သည် ၁၉၄၄ ခုနှစ်တွင် မိုင်းလုံမြို့စားအဖြစ် ဆောင်ရွက်ခဲ့သူဖြစ်၍ သီပေါစော်ဘွားကြီး လွန်သောအခါ ၁၉၄၇ ခုနှစ်တွင် သီပေါနယ် လူထု၏ တင်မြှောက်ချက်အရ သီပေါ စော်ဘွားအဖြစ် အုပ်ချုပ်ခဲ့လေသည်။

စော်ဘွားများ အာဏာ စွန့်လွှတ်ပြီးနောက်တွင် ရှမ်းပြည်နယ်၌ အုပ်ချုပ်ရေး လွယ်ကူစေရန် နယ်မြေများ ပြန်လည် ပိုင်းခြား သတ်မှတ်လိုက်သောအခါ သီပေါနယ်သည် ကျောက်မဲခရိုင်တွင် ပါဝင်၍ မြို့ပိုင်အုပ်ချုပ်သော နယ်တနယ် ဖြစ်လာလေသည်။ တရားစီရင်ရေး၊ အုပ်ချုပ်ရေး ဥပဒေများကို ပြည်မတွင် ကျင့်သုံးသော ဥပဒေများအတိုင်း လိုက်နာဆောင်ရွက်ရန် စီစဉ်လျက် ရှိလေသည်။



စစ်သူကြီးတန်ဆာ ဆင်ယင်ထားသော သီပေါမင်းတရား

**သီပေါမင်း** (မြန်မာ ၁၂၂၀–၁၂၇၈)။ ။ကုန်းဘောင်မင်းဆက်၏ နောက်ဆုံးမင်းဖြစ်သော သီပေါမင်းသည် မင်းတုန်းမင်းကြီး နတ်ရွာစံပြီးနောက် နန်းတက်တော်မူသည်။ မာရ်အောင် ရတနာ စေတီတော် တည်ထား ကိုးကွယ်သောကြောင့် မာရ်အောင် ရတနာ ဒါယကာ ဘဝရှင် မင်းတရားဟူ၍၎င်း၊ ငယ်စဉ်က သီပေါမြို့ကို စားရသောကြောင့် သီပေါမင်း ဟူ၍၎င်း၊ မန္တလေး ရတနာပုံမြို့တွင် ဒုတိယ နန်းစံသော မင်းဖြစ်သဖြင့် မန္တလေး ရတနာပုံ ဒုတိယ မြို့နန်းစံမင်းဟူ၍၎င်း၊ အိန္ဒိယနိုင်ငံ မဒရပ်မြို့သို့ ဗြိတိသျှတို့၏ ဆောင်ယူသွားခြင်း ခံရသဖြင့် မဒရပ်ပါ မင်းဟူ၍၎င်း ထင်ရှားသည်။ ငယ်မည်မှာ မောင်မျိုးဆက်တည်း။

သီပေါမင်းကို ပဉ္စမ သင်္ဂါယနာတင် မင်းတုန်းမင်းတရားကြီးနှင့် ဘထွေးတော် ချွန်းတောင်မြို့စား မိုးနဲ ဗိုလ်မှူး မင်းသား သမီးတော် သီရိမဟာ မင်္ဂလာ သုပဘာဒေဝီ ဘွဲ့ခံ လောင်းရှည်မိဖုရား (နန္ဒာဒေဝီ)တို့မှ ၁၂၂၀ ပြည့်နှစ် နတ်တော်လပြည့်ကျော် ၁၂ ရက် စနေနေ့တွင် ဖွားမြင်တော်မူသည်။

မယ်တော် လောင်းရှည်မိဖုရားအား မင်းတုန်းမင်းတရားကြီးက စိတ် အခန့်မသင့်ဖြစ်၍ အိမ်နိမ့်ချထားစဉ် သီပေါမင်းသားသည် တပယ်မင်းသား၏ အိမ်တော်၌ ငြိုငြင်စွာ နေရသည်။ ထိုနောက် အခြား သားတော်များနှင့်အတူ ဆရာမှတ်ကြီး၏ သံတဲကျောင်း၌ အင်္ဂလိပ်စာပေပညာ သင်ကြားရလေသည်။ ၁၂၃၆ ခုနှစ်တွင် ခမည်းတော် မင်းတရားကြီးက ရှင်သာမဏေအဖြစ်ဖြင့် သာသနာ့ဘောင်သို့ သွတ်သွင်း ချီးမြှင့်တော်မူပြီးလျှင် မာလာလင်္ကာရ သီရိဓဇ မဟာ ဓမ္မရာဇဂုရု တံဆိပ်တော်ရ တောင်တော် ဆရာတော်ထံ အပ်နှံတော်မူခြင်း ခံရသည်။

ထိုနှစ်တွင် ခမည်းတော် မင်းတရားကြီးက သားတော် သမီးတော်များ ပဌမပြန် စာမေးပွဲ ဝင်ရမည် အမိန့်တော်မြွက် မှတ်တော်မူရာ ၁၂၃၇ ခုနှစ်ခန့်တွင် သီပေါမင်းသား လူဝတ်လဲ၍ ပဌမငယ် ပြန်ဆိုသည်။ ထိုနောက် ရှင်သာမဏေ ပြန်ဝတ်လေသည်။ ၁၂၃၈ ခုနှစ်တွင် ပဌမလတ် စာပြန်ပွဲကို လူဝတ်လဲ၍ ပြန်ဆိုပြီးနောက်၊ ရှင်သာမဏေ ပြန်ဝတ်ပြန်သည်။ ၁၂၃၉ ခုနှစ်တွင် ပဌမကြီး စာပြန်ပွဲကို အထက်နည်းအတိုင်း အောင်မြင်စွာ ပြန်ဆိုနိုင်ပြန်သည်။

သားတော်များထဲတွင် တဦးတည်း ထူးချွန်စွာ ပဌမပြန် ဆိုနိုင်သော သားတော် သီပေါမင်းသားအား ခမည်းတော် မင်းတရားကြီးသည် အားရတော်မူလှသဖြင့် ညီလာခံ လွှတ်တော်သို့ အခမ်းအနား ရအား ဆင်မြင်း တပ်ဝင်းခင်းကျင်းကာ ဝင်စေသည်။ ထိုနောက် လူဝတ်လဲစေ၍ နန်းတော်အတွင်း တံခါးနီအပြင် လွှတ်တော်မြောက်ဖက်တွင် မင်္ဂလာ

အိမ်တော် ဆောက်ပေး စံနေစေသည်။ မင်းတုန်းမင်းတရားကြီးသည် သာသနာတော်ကို အထူး လေးစားတော်မူသည့်အလျောက် ပဋ္ဌမပြန် စာမေးပွဲကို ပြန်ဆိုအောင်မြင်ခဲ့သော သားတော် သီပေါမင်းသားအား များစွာ ချစ်ခင်နှစ်သက်တော်မူသဖြင့် အပါးတော်၌ မပြတ်ထွက်ဝင် ခစားစေသည်။ ပဋ္ဌမပြန်အောင်ဆုသည်ပင် သီပေါမင်းသားအား မင်းအဖြစ်ရောက်သည် တိုင်အောင် ကျေးဇူးပြုသည်ဟု ဆိုရမည်ဖြစ်ပေသည်။

၁၂၄၀ ပြည့်နှစ် ဝါခေါင်လတွင် မင်းတုန်းမင်းတရားကြီး မကျန်းမမာ ရှိတော်မူသောအခါ နန်းတော်တွင်း၌ တန်ခိုးကြီးနေသော မင်းတုန်းမင်း၏ အလယ်နန်း မိဖုရား ဆင်ဖြူမရှင်နှင့် ကင်းဝန်မင်းကြီး စသော အလိုတူသည့် မှူးတော်မတ်တော်တို့ တိုင်ပင်ကြပြီးလျှင် သားတော် သီပေါ မင်းသားအား အိမ်ရှေ့ဥပရာဇာ ဆောင်နှင်းရန် မင်းတရားကြီးအား တင်လျှောက်၍ ထိုနှစ် တော်သလင်း လပြည့်ကျော် ၉ ရက်နေ့တွင် အိမ်ရှေ့အပ်နှင်းလေသည်။

သားတော်ကြီးများဖြစ်သောသုံးဆယ်မင်းသား၊ညောင်ရမ်းမင်းသား၊ မက္ခရာမင်းသားတို့ ရှိပါလျက် သားတော်အငယ် သီပေါမင်းသားအား ကင်းဝန်မင်းကြီး စသော မှူးမတ်များက လိုလားရခြင်းမှာ စိတ်ထက်မြက်သော မင်းသားများ ဘုရင်ဖြစ်လျှင် နိုင်ငံအုပ်ချုပ်မှုနှင့် နိုင်ငံခြားဆက်သွယ်မှုများကို မိမိတို့သဘောကျ ဆောင်ရွက်နိုင်မည်မဟုတ်၊ အသက်ငယ်၍ သဘောနူးညံ့သော မင်းသားနှင့်မှ သဘောကျ ဆောင်ရွက်နိုင်မည်ဟု ယုံကြည်သောကြောင့် ဖြစ်လေသည်။ ကင်းဝန်မင်းကြီးသည် ဒီမိုကရေစီ ထွန်းကားသော အနောက်နိုင်ငံများသို့ ရောက်ရှိခဲ့ရာ မိမိနိုင်ငံ တိုးတက်ရေးအတွက် ထိုနိုင်ငံများကဲ့သို့ ဘုရင်၏အာဏာကို ကန့်သတ်ကာ ဝန်ကြီးအဖွဲ့နှင့် တိုင်းပြည်ရေးရာများကို စီမံခန့်ခွဲသွားနိုင်သည့် အုပ်ချုပ်ရေး စံနစ်သစ်ကို တီထွင်လိုသဖြင့် မိမိသြဇာညောင်းမည် ထင်သည့် သီပေါမင်းသားကို သဘောတူခြင်း ဖြစ်လေသည်။(ကင်းဝန်မင်းကြီး — ရှု။)

ဆင်ဖြူမရှင် မိဖုရားကြီးကမူ မိမိ၌ သားတော်မရှိသဖြင့် မိမိသမီးတော်နှင့် ရည်ငံရင်းစွဲရှိသော သီပေါမင်းသားအား သဘောတူညီခြင်း ဖြစ်လေသည်။ သီပေါမင်းသား အိမ်ရှေ့အရာကို ရပြီးနောက် မင်းတုန်းမင်း၏ အခြား သားတော်ကြီးများကို ဖမ်းဆီး ချုပ်နှောင်ထားလေသည်။ ၁၂၄၀ ပြည့်နှစ် သီတင်းကျွတ်လဆန်း ၆ ရက်နေ့တွင် မင်းတုန်းမင်းကြီး နတ်ရွာစံသောအခါ ထိုနေ့တွင်ပင် အိမ်ရှေ့စံ သီပေါမင်းသားသည် ထီးနန်းကို သိမ်းပိုက်တော်မူသည်။

၁၂၄၁ ခုနှစ် နယုန်လတွင် သီပေါ မင်းတရားကြီးသည် သီရိပဝေသနာ ဘိသိက်ကို သွန်းခံတော်မူ၍ ထီးဆောင်းမင်္ဂလာ ဥကင်သ ဖွင့်တော်မူပြီးလျှင်၊ သီရိ ပဝရ ဒိတျ တိလောက ဓိပတိ ပဏ္ဍိတ မဟာ ဓမ္မရာဇာဓိရာဇာ ဘွဲ့တံဆိပ်နာမံတော်ကို ခံတော်မူသည်။ ခမည်းတော် မင်းတုန်းမင်းတရားကြီးနှင့် အလယ်နန်း မိဖုရား ဆင်ဖြူမရှင်မှ ဖွားမြင်သော မြတောင်မြို့စား သီရိ သုမင်္ဂလာ ရတနာဒေဝီ ဘွဲ့ခံစုဖုရားလတ်အား သီရိပဝရ မဟာရာဇိန္ဒာဘိ သုဓမ္မရတနာဒေဝီ တံဆိပ်နာမံတော်ဖြင့် အရှင်နန်းမတော် မိဖုရားခေါင်ကြီး တင်မြှောက်တော်မူသည်။

မယ်တော် လောင်းရှည် မိဖုရားအားလည်း မြောက်ဉယျာဉ်တော်၌အိမ်ဖြူတော်ဆောက်လုပ်ကာ စံနေစေသည်။ နန်းတက်ပြီး မကြာမီပင် ခမည်းတော် နတ်ရွာမစံမီက အကျဉ်းချထားခြင်းခံရသော မင်းညီ မင်းသား ၄၀ ကျော်တို့အား ရွေလွှတ်တော်မှ အမိန့်မပါရှိပဲ လက်သုံးတော်တို့က ကွပ်မျက်လေသည်။ မင်းသား မင်းသမီးတို့အား အစုလိုက်အပြုံလိုက် သတ်ဖြတ်သည့်ကိစ္စတွင် မင်းတရားကြီး တင်ကူး၍မသိရှိရဟု အချို့ရာဇဝင်ဆရာတို့က ဆို၍ အချို့ကမူ မင်းမိဖုရား နှစ်ပါးလုံး အလိုတူ ကြံစည်ရာပါကြောင်းဖြင့်ဆိုကြသည်။ ဤကိစ္စကြောင့် ပြည်သူအများတို့ စိတ်နှလုံးပင်ပန်းညှိုးငယ်ကြရသည်။

သီပေါမင်းတရား နန်းတက်ပြီးနောက် ချက်ခြင်းလိုပင် တောင်ဥယျာဉ်၌ ကျင်းပသော အစည်းအဝေးထွင် နိုင်ငံအုပ်ချုပ်ရေးကို (၁) လယ်ယာ၊ (၂) လက်အလုပ်၊ (၃) ကုန်းကြောင်း စစ်ဖက်၊ (၄) ရေကြောင်း စစ်ဖက်၊ (၅) အကောက် ခွန်၊ (၆) သာသနာ ပညာ၊ (၇) ပုရိသမေဓ (လူခွန်)၊ (၈) သဿမေဓ (မြေခွန်)၊ (၉) ရာဇဝတ်ဖက်၊ (၁၀) တရားဖက်၊ (၁၁) နိုင်ငံခြား၊ (၁၂) တွဲဖက်ရုံး၊ (၁၃) မြို့ရေး ရွာမှု၊ (၁၄) စက်အလုပ်ဟူ၍ ဌာနကြီး ၁၄ ဌာန ခွဲခြား အုပ်ချုပ်ရန် အများသဘောတူ ပြဋ္ဌာန်းလိုက်ကြသည်။ သို့ရာတွင် ထိုနှစ်ဘပေါင်းလ၌ ဌာနဝေပုံ ပျက်သွားပြန်သည်။

၁၉၄၂ ခုနှစ် ဝါခေါင်လတွင် တဖန် ( ၁ ) နိုင်ငံခြားနှင့် သာသနာ ပညာရေး၊ ( ၂ ) တရား ရာဇဝတ်ဖက်၊ (၃) အကောက်အခွန်၊ (၄) သဿမေဓ၊ (၅) ကုန်းကြောင်းစစ်ဖက်၊ (၆) ရေကြောင်းစစ်ဖက်၊ (၇) အလုပ်ဖက်၊ (၈) လယ်ယာ၊ (၉) ဥပဒေဟူ၍ ကိုးဌာန ခွဲခြား သတ်မှတ်ပြန်သည်။ထိုဌာနကြီး ကိုးဌာန အုပ်ချုပ်ရေးလည်း ၁၂၄၂ခုနှစ် နှောင်းတန်ခူးလတွင် ပျက်ပြန်သဖြင့်၊၁၂၄၅ ခုနှစ်တွင်တရား ရာဇဝတ်ဌာနကို နှစ်ဌာန ခွဲ၍၊ ဆယ်ဌာန ခွဲခြားသတ်မှတ် အုပ်ချုပ် ပြန်သည်။ ယင်းသို့ အုပ်ချုပ်ရေး အကြိမ်ကြိမ်ပျက်ရသည်မှာလည်း ရှေးကကဲ့သို့ အခွန်တော်ငွေကို ရှင်ဘုရင် မိဖုရား သဘောအတိုင်း သုံးစွဲလိုသဖြင့် တကြောင်း၊ နိုင်ငံအုပ်ချုပ်မှုတွင် အိမ်တော်ပါ လူငယ်များကို ထည့်လိုသဖြင့် တကြောင်းကြောင့် ပျက်စီးခဲ့ရသည်ဟု ဆိုကြသည်။

သီပေါမင်းတရားလက်ထက်တွင် ကင်းဝန်မင်းကြီးစသော မှူးမတ်ကြီးများ၏ အကြံပေးချက်အရ ပြည်သူတို့ အလိုရှိရာ တင်လျှောက်ခွင့်ရရန် ရွှေမြို့တော် ဓာတ်တံခါး လေးဌာန၌ ရွှေသေတ္တာများ ထား၍ ယင်းရွှေသေတ္တာများကို ဘုရင့်ရွှေတော်၌ ဖွင့်ဖတ်ရသည်။ ထိုရွှေသေတ္တာ စံနစ်ကြောင့်ပင် သီပေါဘုရင်သည် မိမိလက်ထက် နိုင်ငံ အခြေအနေကို သိရှိသတိရတန်သမျှ ရကာ၊ နိုင်ငံအတွင်း လွှမ်းမိုး ရမ်းကားနေသော ရနောင် မောင်မောင်တုတ်နှင့် အပေါင်းပါ တို့အား ဖမ်းဆီး ချုပ်နှောင် နိုင်ခဲ့သည်။ ၁၂၄၄ ခုနှစ်တွင် ယင်းသို့ အုပ်ချုပ်ရေးဖြောင့်မှန် အေးချမ်းတော့မည်ကဲ့သို့ ဖြစ်လာစဉ် ဝန်ကြီးအချင်းချင်း သင်းကွဲကြပြန်သဖြင့် သီပေါမင်းလက်ထက် နိုင်ငံတော်သည် မင်းတုန်းမင်းကြီး လက်ထက်ကကဲ့သို့ ငြိမ်းချမ်းခြင်း မရှိချေ။

၁၂၄၀ ပြည့်နှစ်တွင် သီပေါ မင်းတရားသည် ပြည်သူတို့ ငွေကြေးပေါများ၍ နိုင်ငံတော် စည်ပင်ဝပြောစေရန် ရွှေမြို့တော်၌ထီရုံတော်များဖွင့်လှစ်သည်။ (ထီ — လည်းရှု။) ထီရုံဆယ်ရုံ၌ တနေ့လျှင် ဆယ်ကြိမ်ကျ ဖွင့်လှစ်ပေးရာ နိုင်ငံသူ နိုင်ငံသားတို့သည် ထိုကိုသာ ဂရုစိုက်နေကြ၍ စီးပွားရေး ပျက်စီးသဖြင့် ရည်ရွယ်တော်မူရင်းအတိုင်း မရောက်သောကြောင့် ၁၂၄၃ ခုနှစ်တွင် ထီရုံများ ရုပ်သိမ်းတော်မူသည်။ ထီကြေး တင်သူများအားလည်း ငွေတော်များ ထုတ်၍ ဆပ်ပေးတော်မူသည်။

နိုင်ငံတွင်း အုပ်ချုပ်မှုများတိုးတက်ရန် ဆောင်ရွက်သည့်ကြားမှ ယင်းသို့ ယိုယွင်းနေစဉ် နိုင်ငံခြားဆက်သွယ်ရေးကိုလည်း အကောင်းဆုံး ဖြစ်လာစေရန် မင်းတရားကြီးသည် ကြိုးစားခဲ့သည်။ မင်းတရားကြီးသည် ခမည်းတော် အရိုက်အရာကို ဆက်ခံတော်မူကြောင်း ဗိလတ်ရှိ ဝိတိုရိယဘုရင်မကြီးထံ သဝဏ်လွှာ ပါးလိုက်သောအခါ ဘုရင်မကြီးထံမှလည်း ဝမ်းမြောက်ကြောင်း သဝဏ်လွှာ ရောက်ရှိလာသည်။ နိုင်ငံတွင်း အင်အားများ ကွဲနေသည်ကို သိသော နယ်ချဲ့နိုင်ငံများသည် မြန်မာနိုင်ငံအား ဝိုင်းအုံကာ အခွင့် အလမ်းရရှိဖို့ ကြိုးပမ်းကြလေသည်။

၁၂၄၁ ခုနှစ်တွင် သီပေါဘုရင်သည် ဗြိတိန်နှင့် အသင့်အမြတ် ဆက်ဆံလို၍သံများစေလွှတ်ရာ ဗြိတိသျှပိုင်နယ်မြေဒေသဖြစ်သော သရက်မြို့ကို လွန်၍ သွားခွင့်မရသောကြောင့် ပြန်လာခဲ့ရသည်။ နောက်နှစ်တွင်မှ အိန္ဒိယဘုရင်ခံချုပ်နှင့် ဆင်းမလားမြို့တွင် တွေ့ဆုံခွင့် ရသည်။ သို့ရာတွင် မဟာမိတ် စာချုပ်အသစ် ချုပ်ဆိုရန် ပြောဆိုကြရာ အကြောင်းမညီညွတ်ချေ။ ပဉ္စမ သင်္ဂါယနာတင် မင်းတရားကြီးလက်ထက် ချုပ်ဆိုပြီးရှိသည့် စာချုပ်အတိုင်း လိုက်နာရန် နှစ်ဦးသဘောတူ ပြောဆို၍ နေပြည်တော်သို့ ပြန်လာခဲ့ရသည်။ ယင်းသို့ အင်္ဂလိပ်နှင့်မြန်မာ ဆက်ဆံရေး ခပ်တန်းတန်းရှိနေသဖြင့် မြန်မာတို့သည် မိမိနှင့် လွယ်ကူစွာ သဟဇာတ ဖြစ်နိုင်သော ပြင်သစ်တို့နှင့် ဆက်ဆံကြလေသည်။

၁၂၄၆ ခုနှစ်တွင် ပြင်သစ်နိုင်ငံသို့ မြန်မာ သံတော်များ စေလွှတ်၍ ပြင်သစ် နိုင်ငံခြားရေးဝန်ကြီး မွန်ရှာ ဖေရီနှင့် စာချုပ် ချုပ်ဆိုခဲ့သည်။ စာချုပ်အရ မန္တလေး နေပြည်တော်သို့ ပြင်သစ်ကိုယ်စားလှယ်တဦး လာရောက် နေထိုင်သည်။ ပြင်သစ်လူမျိုးအင်ဂျင်နီယာ၊ စက်ဆရာ၊ ပိုးမွေးတတ်သူ၊ ဘဏ္ဍာရေး အတိုင်ပင်ခံ စသည်တို့ မြန်မာမင်းထံ လာရောက် အမှုထမ်းကြသည်။ မြန်မာရဲအဖွဲ့နှင့် စစ်တပ်ကိုလည်း ဣတာလီနှင့် ပြင်သစ်အရာရှိတို့က သင်ကြားဖွဲ့စည်းပေးကြသည်။ ထို့ပြင် မန္တလေးမြို့နှင့် ပြင်သစ်ပိုင် တုံကင်မြို့ကို မီးရထားလမ်းဆက်သွယ်ဖောက်လုပ်ရန်၊ မန္တလေးမြို့၌ ပြင်သစ်ဘဏ်တိုက်တတိုက်ဖွင့်ရန်၊ ထိုဘဏ်တိုက်သည် ကျောက်တွင်း လုပ်ငန်းနှင့် ရှမ်းပြည် လက်ဖက်လုပ်ငန်းကို တဦးတည်းပိုင် သဘောနှင့် ဆောင်ရွက်ရန် စသောအချက်များကို သဘောတူခဲ့ကြပြီးဖြစ်သည်။ ယင်းအချက်များကြောင့် ပြင်သစ်တို့ မြန်မာနိုင်ငံ၌ အခြေစိုက်ပြီး ဖြစ်သွားမည်ကို စိုးရိမ်သော အင်္ဂလိပ်တို့သည် မြန်မာနိုင်ငံ ပြင်သစ်တို့လက်သို့ မရောက်မီ မိမိတို့ကလက်ဦးရန်အချက်ကိုစောင့်နေကြသည်။

ဤသို့သော အခြေအနေတွင် တောင်ငူမြို့၌ သစ်လုပ်ငန်း လုပ်နေသော ဘုံဘိုင်ဘားမား ကုမ္ပဏီနှင့် သစ်လုံးခိုးမှုဖြင့် အရှုပ်အရှင်း ဖြစ်ရပြန်သည်။ ကုမ္ပဏီနှင့် ဖြစ်ရသော အရေးအခင်းတွင် ဗြိတိသျှအစိုးရက ဝင်ပါကာ နောက်ဆုံး ၁၂၄၇ ခုနှစ် တန်ဆောင်မုန်းလတွင် ဗြိတိသျှတို့သည် မြန်မာနိုင်ငံကို စစ်တိုက်ရန် ချီတက်လာကြသည်။ မြန်မာတို့ဖက်မှလည်း လက်နက်ချင်း မမျှသဖြင့် ကောင်းစွာ မခုမခံနေသောကြောင့် ဗြိတိသျှတို့ အခက်အခဲမရှိ မန္တလေးသို့ရောက်ရှိလာပြီးလျှင် ထိုနှစ်တန်ဆောင်မုန်းလဆုတ် ၈ ရက်နေ့တွင် သီပေါမင်းနှင့်တကွ တမြို့လုံးကို သိမ်း၍ မင်းမိဖုရား သားတော် သမီးတော်များအား အိန္ဒိယနိုင်ငံ မဒရပ်မြို့သို့ရှေးဦးစွာ ခေါ်သွားလေသည်။ (ပါတော်မူနေ့ — လည်းရှု။)

ထိုနောက်ဘုံဘိုင်ပြည်နယ်ရတနာဂီရိမြို့တွင်ထားသည်။ သီပေါမင်းတရားသည် ၁၂၇၈ ခုနှစ် နတ်တော်လပြည့်ကျော် ၆ ရက်နေ့တွင် သက်တော် ၅၉ နှစ်၌ ရတနာဂီရိစံအိမ်တော်တွင် နတ်ရွာစံတော်မူသဖြင့် အလောင်းတော်ကို ထိုမြို့၌ပင် သင်္ဂြိုဟ်လေသည်။ ၁၂၈၁ခုနှစ်တွင် အရှင်မိဖုရားခေါင်ကြီးကို မြန်မာနိုင်ငံသို့ ပြန်ခွင့်ပြုရာ ရန်ကုန်မြို့ ဗဟန်းရပ် ကိုယ်မင်းကိုယ်ချင်းလမ်းရှိတိုက်နန်းတော်၌စံနေတော်မူသည်။ ၁၂၈၇ ခုနှစ် နတ်တော်လဆန်း ၁၀ ရက်နေ့တွင် သက်တော် ၆၆ နှစ်၌ မိဖုရားခေါင်ကြီး နတ်ရွာစံသည်။ အလောင်းတော်ကို ရွှေတိဂုံစေတီတော် တောင်ဖက်ခြေတော်ရင်းပန်းခြံတွင်း၌ ဂူသွင်းသင်္ဂြိုဟ်လေသည်။

သီပေါ မင်းတရားကြီးနှင့် မိဖုရားခေါင်ကြီးတို့၌ သား တော် သမီးတော် ခုနစ်ပါး ထွန်းကားရာ သားတော်ကြီး တပါးနှင့် သမီးတော် နှစ်ပါး ငယ်က လွန်သဖြင့် သမီးတော် လေးပါးကျန်ခဲ့သည်။

မင်းတရားကြီးကား စိတ်သဘောထားနူးညံ့ပျော့ပျောင်း ၍ ရိုးသားတော်မူလှသည်။ ထိုကြောင့် အလွန် စိတ်ထက် မြက်သော မိဖုရားကြီး၏ ဩဇာသည် မင်းတရားကြီး၏ ဩဇာထက် နန်းတော်တွင်း၌ ညောင်းလေသည်။

မင်းတရားကြီး၏ ကုသိုလ်တော်များကား မာရ်အောင် ရတနာစေတီတော်၊ မဟာစံလွှတ်ဝေယန်ကျောင်းတော်နှင့် အခြားဂူကျောင်းအများ ဖြစ်သည်။

**သီပေါမြို့**။ ။ရှမ်းပြည်မြောက်ပိုင်းတိုင်း၊ ကျောက်မဲခရိုင် အတွင်းရှိ သီပေါမြို့သည် ရှမ်းစော်ဘွားများ အာဏာမစွန့် လွှတ်မီက သီပေါ နယ်ရှင်စော်ဘွားကြီး၏ ရုံးစိုက်ရာမြို့ ဖြစ် လေသည်။ (သီပေါနယ် — ရှု။) ရှမ်းစော်ဘွားများအာဏာ စွန့်ပြီးနောက်တွင် သီပေါနယ်သည် နယ်ပိုင် အအုပ်အချုပ်ခံ ဖြစ်လာ၍ သီပေါမြို့သည်နယ်ပိုင်ရုံးစိုက်မြို့ဖြစ်လာလေသည်။

ရှေးမြန်မာမင်းများ လက်ထက်က အုန်းပေါင်စော်ဘွား သည် အုန်းပေါင်မြို့၌ နန်းစိုက် စံမြန်းနေခဲ့ရာမှ အရပ်အနေ မသင့် ဖြစ်လာသဖြင့် အုန်းပေါင်မြို့မှ သီပေါမြို့သို့ ရွှေ့ပြောင်း ရသည်။ သီပေါ ဟု ခေါ်တွင်ရခြင်းမှာ ဟော်နန်း တည် ဆောက်မည့်နေရာကို မြေတူးဆွကြသော အခါ ပတ္တမြား တလုံး ပေါ်ထွက်လာသည်ကို အကြောင်းပြုခဲ့ခြင်း ဖြစ် သည်။ ပတ္တမြား ပေါ်ထွက်ခြင်းသည် ရှမ်းဘာသာ စကား ဖြင့် ဆိုင်ပေါ် ဖြစ်ရာ ကာလကြာမြင့်သော် ဆိုင်ပေါ်မှ ဆီ ပေါ၊ ဆီပေါမှ သီပေါဟု ရွေ့လျောလာဟန် တူသည်ဟု ဆို ကြလေသည်။

သီပေါမြို့သည် မန္တလေး–လားရှိုး သွား မော်တော်ကား လမ်းနှင့် မီးရထားလမ်းတို့ ဖြတ်သန်းသွားရာမြို့ ဖြစ်သည်။ ဒုဋ္ဌဝတီ ဟုလည်း ခေါ်သော မြစ်ငယ်မြစ်၏ မြစ်ကမ်းဘေး တွင် တည်ရှိသည်။ ဒုဋ္ဌဝတီမြစ်သည် သီပေါမြို့ကို ကွေ့ဝိုက်စီး ဆင်းသွားသည်။ မြစ်ကမ်းဘေး ပေ ၁,၇၅၀ မြင့်သော မြေ ပြန့်လွင်ပြင်တွင် မြို့တည်ထားသဖြင့် မြို့အနေအထား လှပ သာယာသည်။ မြို့ဧရိယာသည် ၁၀၄,၃၅၉ ဧက ရှိ၍ အိမ်ခြေ ၁,၄၄၆၊ လူဦးရေ (နောက်ဆုံး စာရင်းအရ) ၈,၄၅၉ ယောက်



သီပေါမြို့၏ ကျက်သရေဆောင် မဟာမြတ်မုနိဘုရားတန်ဆောင်း

ရှိလေသည်။ မြို့ပေါ်ရှိ လူဦးရေ အများစုသည် ဗုဒ္ဓအယူဝါဒီ ရှမ်းနှင့် မြန်မာ လူမျိုးတို့ ဖြစ်ကြ၍ နိုင်ငံခြားသား တရုပ်၊ အိန္ဒိယ လူမျိုးများလည်း အနည်းအကျဉ်းရှိသည်။ မြို့ပေါ်၌ (၁) မြန်မာရပ်၊ (၂) အနောက်ရပ်၊ (၃) တောင်ကုန်းရပ်၊ (၄) ပန်းထိမ်ရပ်၊ (၅) ဈေးရပ်၊ (၆) မြို့လယ်ရပ်၊ (၇) မြောက်မြို့ဟူ၍ ရပ်ကွက်ခုနစ်ခု ခွဲခြားသတ်မှတ်ထားသည်။

ပူနွေးစိုစွတ်သော ရာသီဥတု ရှိသဖြင့် သီပေါမြို့နယ် အတွင်း စိုက်ပျိုးလုပ်ကိုင်ရေး ကောင်းမွန်ဖြစ်ထွန်းသည်။ သီပေါမြို့နယ် အတွင်း၌ လိမ်မော်၊ ရှောက်ချို၊ သံပရာ၊ အခြား ရှောက်အမျိုးမျိုး၊ ဆန်စပါး၊ လက်ဖက်၊ ကြက်သွန်ဖြူနှင့် မြေပဲ စသည်တို့ကို စိုက်ပျိုးလုပ်ကိုင်ကြသည်။ သီပေါမြို့နယ်သည်လိမ်မော်နှင့်ရှောက်အမျိုးမျိုးတို့ အများအပြား ထွက်ရှိသဖြင့် လူသိများပြား ထင်ရှားသည်။ သီပေါမြို့နယ်၏ အခြားထွက်ကုန်တမျိုးမှာ ကျွန်းသစ် ဖြစ်လေသည်။

မြို့နယ်အတွင်းမှ ထွက်ကုန်များကို မြို့နယ် အတွင်းနှင့် အပသို့ တင်ပို့ရန် မီးရထားလမ်းနှင့် မော်တော်ကားလမ်းကို အများဆုံး အသုံးပြုရသည်။ သီပေါမြို့သည် ခရိုင်ရုံးစိုက်မြို့ဖြစ်သော ကျောက်မဲမြို့နှင့် ၂၂ မိုင် ကွာဝေးသည်။ ထို့ပြင် လားရှိုးမြို့နှင့် ၄၅ မိုင်၊ နမ္မတူမြို့နှင့် ၄၂ မိုင်၊ နမ့်ဆန်မြို့ နှင့် (မိုးတေနှင့် လီလုကူးတို့များကို ဖြတ်ကျော်၍) ၅၄ မိုင်ဝေးသည်။ ရှမ်းပြည် တောင်ပိုင်းရှိ လွိုင်လင်မြို့နှင့် မော်တော်ကားလမ်း အဆက်အသွယ်ရှိ၍ ၁၇၆ မိုင် ဝေးကွာပြီးလျှင် နမ့်လည်း၊ မိုင်းကိုင်း၊ လဲချားမြို့များကို ဖြတ်ကျော် သွားရလေသည်။

မြို့ပေါ်၌ ထင်ရှားသော သာသနိက အဆောက်အအုံများမှာ မဟာမြတ်မုနိ ဘုရားတန်ဆောင်း၊ ရွှေစေတီ၊ သိမ်ကုန်းဘုရား စသည်တို့ ဖြစ်ကြသည့်အပြင် ရေဦးကျောင်း၊ ရွှေကျောင်း၊ ဥယျာဉ်တော်ကျောင်း၊ ဘန်ကာကျောင်း စသောဘုန်းတော်ကြီးကျောင်းပေါင်း ၁၅ ကျောင်းရှိသည်။ အခြားထင်ရှားသော အဆောက်အအုံများမှာ ယခင်က သီပေါစော်ဘွားတို့ စံမြန်းခဲ့သော ဟော်နန်း၊ နမ္မတူ မြစ်ကမ်းဘေးရှိ ရေဟော်၊ အစိုးရရုံးများ၊ ဆေးရုံ၊ အစိုးရ အထက်တန်းကျောင်းနှင့် မူလတန်း ကျောင်းများ၊ ဘူတာရုံ၊ ဈေးဆိုင် တိုက်ဆိုင်ကြီးများဖြင့် စည်ကားသော ဈေး၊ လူထုအပန်းဖြေ စမ်းမာလာ ဥယျာဉ် စသည်တို့ ဖြစ်ကြလေသည်။

နှစ်စဉ်ဘုရားပွဲတော် ကြီးကျယ်စည်ကားသော ဘော်ကြိုဘုရားသည် သီပေါမြို့နှင့် ခုနစ်မိုင်အကွာ၌ တည်ရှိလေသည်။

**သီဖ။** ။သောင်တင်ငှက် — ရှု။

**သီရိဓမ္မာသောကမင်း။** ။အသောကမင်း — ရှု။

**သီရိလက်ာနိုင်ငံ။** ။သီဟိုဠ်ကျွန်း — ရှု။

**သီလ၊ သမာဓိ၊ ပညာ။** ။သံသရာဝဋ်ဆင်းရဲမှ လွတ်ကွင်း၍ နိဗ္ဗာန်ချမ်းသာကို မျက်မှောက်ပြုလိုသော ပုဂ္ဂိုလ်သည် သီလ၊ သမာဓိ၊ ပညာ တည်းဟူသော သိက္ခာသုံးပါး၌ ကျင့်ကြံကြိုးကုတ် အားထုတ်ရာသည်။ ထို့ကြောင့်မြတ်စွာ ဘုရားရှင်သည် —

သီလံ သမာဓိ ပညာစ၊ ယဿ ဧတေ သုဘာဝိတာ။
အတိက္ကမ္မ မာရဓေယျံ၊ အာဒိစ္စောဝ ဝိရောစတိ။ ။

ဟူ၍ ဣတိဝုတ်ပါဠိတော်၌ ဟောတော်မူသည်။

အဓိပ္ပါယ်ကား အကြင်သူသည် အဓိသီလသိက္ခာ ဟုဆိုအပ်သော သီလကိုင်၎း၊ အဓိစိတ္တသိက္ခာဟု ဆိုအပ်သော သမာဓိကိုင်၎း၊ အဓိပညာသိက္ခာဟု ဆိုအပ်သော ပညာကိုင်၎း၊ ဤသုံးပါးသော တရားတို့ကို ဆုံးခန်းတိုင်အောင် ကောင်းစွာ ပွားများအပ်ကုန်၏။ ယင်းသို့ ပွားများသောသူသည် မာရ်မင်း၏ နိုင်ငံကို လွန်မြောက်၍ နေမင်းကြီးကဲ့သို့ ထွန်းလင်းတင့်တယ်၏။

ထို သီလ၊ သမာဓိ၊ ပညာ သိက္ခာသုံးပါးတို့တွင် သီလဆိုသည်ကား လူတို့၌ ငါးပါးသီလ၊ အာဇီဝဋ္ဌမကသီလ၊ ရှစ်ပါးသီလ၊ ဆယ်ပါးသီလတို့ပေတည်း။ ပကတိ လူတို့အတွက် ငါးပါးသီလနှင့် အာဇီဝဋ္ဌမကသီလဟု ဆိုအပ်သော နိစ္စသီလသည် သီလမည်၏။ ရှစ်ပါးသီလနှင့် ဆယ်ပါးသီလ နှစ်ပါးသည် အမွမ်းတင်သီလမျိုး ဖြစ်သည်။ နိစ္စသီလမျိုး မဟုတ်၍ တတ်နိုင်လျှင် ဆောက်တည်အပ်၏။ ရဟန်းတို့၌ကား စတုပါရိသုဒ္ဓိသီလသည် သီလမည်၏။ ဤသီလသိက္ခာပုဒ်တို့ကို ဒွါရအားဖြင့် ခွဲလိုက်သည်ရှိသော် ကိုယ်ဖြင့် မလွန်ကျူးကောင်းသော အပြစ်ဒေါသဟူသမျှသည် ကာယဒုစရိုက်မည်၏။ နှုတ်ဖြင့် မလွန်ကျူးအပ်၊ မလွန်ကျူးကောင်းသော အပြစ်ဒေါသဟူသမျှသည် ဝစီဒုစရိုက် မည်၏။ စိတ်ဖြင့် မလွန်ကျူးအပ်၊ မလွန်ကျူးကောင်းသော အပြစ်ဒေါသဟူသမျှသည် မနောဒုစရိုက်မည်၏။ ထိုကာယဒုစရိုက်၊ ဝစီဒုစရိုက်၊ မနောဒုစရိုက်တို့ကို မလွန်ကျူး မပြုကျင့်ပဲ ထိန်းသိမ်း စောင့်ရှောက်သောအားဖြင့် ကာယသုစရိုက်၊ ဝစီသုစရိုက်၊ မနောသုစရိုက် ဟူသည့် သုစရိတသီလသုံးပါးနှင့် ပြည့်စုံသောသူသည် ကောင်းသော အကျင့်သီလနှင့် ပြည့်စုံသောသူ မည်၏။

သီလ၊ သမာဓိ၊ ပညာ သိက္ခာသုံးပါးတို့တွင် သမာဓိဟူသည် ပျံ့လွင့်နေသောစိတ်ကို မပျံ့လွင့်စေပဲ တခုတည်းသောအာရုံ၌ ကောင်းစွာ တည်ငြိမ်အောင် ပြုလုပ်ခြင်းဖြစ်သည်။ သမာဓိနှင့် ပြည့်စုံရန် ဘုရားရှင်ဟောကြားအပ်သော သမထ ကမ္မဋ္ဌာန်း ၄၀ တို့တွင် မိမိနှင့်သင့်လျော်သော တပါးပါးသော ကမ္မဋ္ဌာန်း၌ ပရိကမ္မသမာဓိဖြစ်ပွားအောင်

အားထုတ်မှု၊ ထိုထက်တတ်နိုင်ပါမူ ဥပစာရသမာဓိဖြစ်ပွားအောင် အားထုတ်မှု၊ ထိုထက် တတ်နိုင်ပါမူ အပ္ပနာသမာဓိဖြစ်ပွားအောင် အားထုတ်အပ်၏။ သမထ ကမ္မဋ္ဌာန်းကို ပွားမျှား အားထုတ်ခြင်းကြောင့် ပုဂ္ဂိုလ်အား ဤသုံးပါးသော သမာဓိတို့ ဖြစ်ပေါ်လာသည်ရှိသော် ထိုပုဂ္ဂိုလ်ကို သမာဓိနှင့် ပြည့်စုံသော ပုဂ္ဂိုလ်ဟု မှတ်အပ်၏။ သမထကမ္မဋ္ဌာန်း ၄၀ တို့ကား ကသိုဏ်း ဆယ်ပါး၊ အသုဘဆယ်ပါး အနုဿတိဆယ်ပါး၊ ဗြဟ္မဝိဟာရလေးပါး၊ အာရုပ္ပလေးပါး၊ အာဟာရေပဋိကူလသညာတပါး၊ စတုဓာတုဝဝတ္ထာန်တပါး ပေါင်း လေးဆယ်ဖြစ်သည်။

သီလ၊ သမာဓိ၊ ပညာ သိက္ခာသုံးပါးတို့တွင် ပညာဟူသည် ဒုက္ခသစ္စာ၌ ကောင်းစွာ သိမြင်သော ဝိဇ္ဇာဉာဏ်၊ ဒုက္ခဖြစ်ကြောင်း သမုဒယသစ္စာ၌ ကောင်းစွာသိမြင်သော ဝိဇ္ဇာဉာဏ်၊ ဒုက္ခ၏ ချုပ်ရာ နိရောဓသစ္စာ၌ ကောင်းစွာ သိမြင်သော ဝိဇ္ဇာဉာဏ်၊ ဒုက္ခကင်းချုပ်ရာ နိရောဓသစ္စာသို့ ရောက်ကြောင်း မဂ္ဂသစ္စာ၌ ကောင်းစွာသိမြင်သော ဝိဇ္ဇာဉာဏ်တို့ဖြစ်သည်။ ထိုပြင် ရုပ်၊ နာမ်၊ ခန္ဓာ၊ အာယတန၊ ဓာတ်၊ ပဋိစ္စသမုပ္ပါဒ်တို့၌ ဝေဖန်ခွဲခြား တတ်စွမ်းလိမ္မာမှု၊ အနိစ္စ၊ ဒုက္ခ၊ အနတ္တ တည်းဟူသော လက္ခဏာရေးသုံးပါးတို့၌ ရှုမြင်မှုတို့သည်လည်း ပညာမျိုးမည်၏။ ဤသို့သော ပညာနှင့်ပြည့်စုံသောသူသည် ကောင်းသောပညာနှင့် ပြည့်စုံသောသူ မည်၏။

အဆိုပါ သီလ၊ သမာဓိ၊ ပညာ သိက္ခာသုံးပါးတွင် ပညာအဆင့်သည် အရေးအကြီးဆုံးအဆင့် ဖြစ်သည်။ ပညာအဆင့်ကို မရောက်ပဲ သံသရာ ဝဋ်ဆင်းရဲမှ မလွတ်ကင်းနိုင်ချေ။ ပညာအဆင့်ကို ရောက်ရန်မှာ သမာဓိရှိမှ ရောက်နိုင်သည်။ သမာဓိအဆင့်ကို ရောက်ရန်မှာလည်း သီလရှိမှ ရောက်နိုင်သည်။ ထို့ကြောင့် သီလသည် သမာဓိဖြစ်ခြင်း၏ အကြောင်းအစပင်တည်း။ သမာဓိသည် ပညာဖြစ်ခြင်း၏ အကြောင်းအစပင်တည်း။ သီလရှိမှ သမာဓိ ဖြစ်နိုင်သည်။ သမာဓိရှိမှ ပညာစခန်းသို့ ရောက်နိုင်သည်။ ပညာဖြစ်ပေါ်လာမှ သံသရာဝဋ်ဆင်းရဲမှလွတ်၍ နိဗ္ဗာန်သို့ရောက်နိုင်သည်။

ကိလေသာတို့ကို ပယ်သတ်၍ နိဗ္ဗာန်ရောက်ရာ လမ်းကြောင်း ဖြစ်သည့် သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ၊ သမ္မာဝါစာ၊ သမ္မာကမ္မန္တ၊ သမ္မာအာဇီဝ၊ သမ္မာဝါယာမ၊ သမ္မာသတိ၊ သမ္မာသမာဓိ ဟူသော မဂ္ဂင်ရှစ်ပါးတို့ကို သဘောတူ ကိစ္စတူ အနေအားဖြင့် သိက္ခာ ဖွဲ့လိုက်သည်ရှိသော် သမ္မာဝါစာ၊ သမ္မာကမ္မန္တ၊ သမ္မာအာဇီဝ မဂ္ဂင်သုံးပါးသည် သီလသိက္ခာ၌ ဝင်သဖြင့် သီလက္ခန္ဓမဂ္ဂင် မည်၏။ သမ္မာဝါယာမ၊ သမ္မာသတိ၊ သမ္မာသမာဓိ မဂ္ဂင်သုံးပါးသည် သမာဓိသိက္ခာ၌ ဝင်သဖြင့် သမာဓိက္ခန္ဓမဂ္ဂင်မည်၏။ သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ မဂ္ဂင်နှစ်ပါးကား ပညာသိက္ခာ၌ ဝင်သဖြင့် ပညာက္ခန္ဓမဂ္ဂင်မည်၏။ သို့ဖြင့် ကိလေသာတည်းဟူသော အကုသိုလ်တရားတို့ကို ထိုက်သည်အားလျော်စွာ ပယ်သတ်ရာ၌ သီလသည် ကြမ်းတမ်းသော ဝီတိက္ကမ ကိလေသာကို ပယ်ခွာ၏။ သမာဓိသည် အလတ်ဖြစ်သော ပရိယုဋ္ဌာန ကိလေသာကို ပယ်ခွာ၏။ ပညာသည် သိမ်မွေ့သော အနုသယ ကိလေသာကို ပယ်ခွာ၏။

**သီလ၊ ဦး၊ ဆရာတော်** (မြန်မာ ၁၁၈၄ – ၁၂၆၉)။ ။ ဆရာတော် ဦးသီလဟု အများ ခေါ်ဝေါ်ကြသော တောရဆရာတော်ဘုရားကြီးသည် ပဲခူးမြို့ မြောက်ဖက် နှစ်မိုင်ခန့်ဝေးသော အထက်ဇိုင်းဂနိုင်းကြီးရွာ၌ သက္ကရာဇ် ၁၁၈၄ ခုနှစ် နတ်တော်လဆန်း ၈ ရက် သောကြာနေ့နံနက် ၈ နာရီအချိန်တွင် ဖွားမြင်သည်။ အဖမှာ ကုန်သည် ဦးထွန်းအောင်ဖြစ်၍ အမိ ဒေါ်ချို ဖြစ်သည်။ ဦးရွှေသာ၊ ဒေါ်သူဇာ၊ ဒေါ်အို၊ ဒေါ်လှအောင်၊ ဦးဘိုးကျော် ဟူသော မွေးချင်း ငါးယောက် ရှိသည့်အနက် ဦးသီလ ဆရာတော်လောင်း ဦးရွှေသာသည် အကြီးဆုံးဖြစ်သည်။

မောင်ရွှေသာသည် ၁၀ နှစ်သားအရွယ်တွင် ကော့ပြင်ရွာ ဘုန်းတော်ကြီး ဦးမှူးထံ၌ စာပေ သင်ကြားရန် ကျောင်းသားအဖြစ် အပ်နှံခံရသည်။ ၁၂၀၆ ခုနှစ်တွင် အသက် ၁၂ နှစ်အရွယ် ရောက်သောအခါ ရှင်သာမဏေအဖြစ်ရောက်သည်။ ဘွဲ့တော်မှာ ရှင်သီလသာရ ဖြစ်သည်။ ရှင်သာမဏေဘဝဖြင့် ခုနစ်ဝါနေပြီးနောက် ၁၂၁၃ ခုနှစ် တပို့တွဲလတွင် ကျိုက်ဒေးယျုံ ဘုရား ကုန်းတော် အရံအတွင်းရှိ ခဏ္ဍသိမ်တော်ကြီး၌ ပီလခတ်ရွာ ဘုန်းတော်ကြီးကို ဥပဇ္ဈာယ်ပြု၍ ကာရကသံဃာ များစွာဖြင့် ရဟန်းဘောင်သို့ တက်တော်မူသည်။

ကော့ပြင်ရွာ ဘုန်းတော်ကြီး ဦးမှူးထံ၌ ရဟန်း နှစ်ဝါရသည်တိုင်အောင် နေပြီးနောက်၊ ပဲခူးမြို့ထောင့်ကျောင်း ဆရာတော်ကြီး ဦးစန္ဒာလင်္ကာရ ဘွဲ့တော်ရှိသောဘုန်းကြီး ဦးပုံထံ၌ ငါးဝါရသည်တိုင်အောင် ပရိယတ္တိဓမ္မ အခြေခံစာပေတို့ကို နေ့ညဥ့်မပြတ် သင်ကြား အားထုတ်နေလေသည်။ ဦးသီလသည် ထိုစဉ်က ပြတ်ပြတ်သားသား မှတ်သားဖွယ် တရားများကို ဟောကြားနိုင်သဖြင့် အများကြည်ညိုကြသည်။ ၁၂၁၈ ခုနှစ် ရဟန်းဝါ ငါးဝါရပြီးသောအခါ ရန်ကုန်မြို့သို့ ကြွလာ၍ ယခု ပုဇွန်တောင် ကျိုက်ထီးရိုးကျောင်းတိုက် တည်ရာ၌ ရွှေကြက်ယက်ဘုန်းတော်ကြီး ဦးမေဓာထံတွင် စာပေကျမ်းဂန် သင်ယူကာ တဝါနေလေသည်။

ဦးသီလသည် ခြောက်ဝါရပြီးသောအခါ ပဲခူးမြို့သို့ ပြန်ကြွသွားကာ ကလျာဏီ တောရ ဘုန်းတော်ကြီး ဦးဝဏ္ဏထံ၌ တဝါ၊ မန္တလေးမြို့သို့ တက်၍ စစ်ကိုင်းဖက်



သပိတ်တလုံး၊ သင်္ကန်းသုံးထည်၊ သားရေနွယ် တချပ်ဖြင့်သာ ရောင့်ရဲတော်မူတတ်သည့် ဆရာတော် ဦးသီလ

ကူးပြီးလျှင် စစ်ကိုင်း ပိတောက်ချောင် တောင်ရိုး အရိယဝံသ ရေငုံတိုက်၌တဝါ၊ မန္တလေးမြို့ အရှေ့စလင်းတိုက်၌ တဝါ အသီးအသီး သီတင်းသုံး၍ စာပေ သင်ယူသည်။

၁၂၂၂ ခုနှစ်တွင် ရဟန်းဝါ ကိုးဝါ အရ၌ ဦးသီလသည် ကောင်းစွာ မကျန်းမာသဖြင့် ပဲခူးဖက်သို့ စုန်ဆင်းလာပြီးလျှင် လာကမွတ်ရွာ၊ ဈေးညောင်ပင်ရွာ စသည်တို့၌ ခေတ္တစီ သီတင်းသုံး၍ ပတ္တမြားစေတီ၊ ကျိုက်ပတိုင် ကုန်းတန်း ဂူကုန်းတို့၌ အရညဝါသီ တောမှီ ပုဂ္ဂိုလ်အဖြစ်ဖြင့် တောရဆောက်တည် နေတော်မူသည်။ ၁၂၂၆ ခုနှစ်တွင် ပဲခူးမြို့မှ ဂိုဏ်းအုပ် ဆရာတော်ကြီး ဦးပုံ တောထွက်တော်မူသောအခါ ဦးသီလလည်း နောက်မှ တပါတည်း လိုက်သွားလေသည်။ ဘုန်းကြီး ဦးပုံသည် ကလျာဏီကျောင်းတိုက် တောင်ဖက်တွင် ကပ်လျက်ရှိသော သစ်စေးပင် လေးတိုင်စင်ကျောင်းငယ်၌ သီတင်းသုံးတော်မူသောအခါ ဦးသီလလည်း ထိုကျောင်းနှင့် မနီးမဝေး အနောက်ဖက်ကျောင်းငယ်တခု၌ သီတင်းသုံးနေထိုင်သည်။ ဝါကျွတ်လတ်သော် ပဲခူးမြို့ အရှေ့ ဟင်္သာကုန်းသို့ ရွှေ့ပြောင်း၍ တောကျောင်း၌ ဘုန်းကြီး ဦးပုံနှင့်အတူ ဝါကပ်သည်။ ယင်းသို့ဖြင့် ဘုန်းကြီး ဦးပုံ မဟာနာယကပြု၍ တည်ထောင်သော တောရဂိုဏ်းတွင် ဘုန်းတော်ကြီး ဦးသီလသည် ဒုတိယနာယက ဖြစ်လာလေသည်။ ပဲခူး တောရဂိုဏ်းကြီးသည် ရွှေကျင် ဆရာတော်ကြီး တည်ထောင်သော ရွှေကျင်ဂိုဏ်းနှင့် ဝိနည်းကို ပမာနထား၍ သီးသန့်ခြင်း၊ ဂိုဏ်းတပါးနှင့် အဆက်အဆံ မရှိခြင်းတို့၌ အယူသီလ တူမျှလေသည်။ ယင်းသို့ ရွှေကျင်ဂိုဏ်းနှင့် ပဲခူးတောရဂိုဏ်းတို့ နှစ်ဂိုဏ်းတဂိုဏ်း ဖြစ်ပြီးသောအခါ ဆရာတော် ဦးသီလပင်လျှင် ယင်းဂိုဏ်းကြီး၏ ဒုတိယနာယက ဖြစ်တော်မူလေသည်။

၁၂၂၈ ခုနှစ် ဝါလသီတင်းကျွတ်သောအခါ ဦးသီလသည် ဟင်္သာကုန်းမှ ဖဲခွာလေသည်။ ထို ၁၅ ဝါရပြီးမှစ၍ ကျိုက်ဒေးယျုံ၊ လာကမွတ်၊ ဈေးညောင်ပင်၊ ကျိုက်ပတိုင်ကုန်းတန်း၊ ဂူကုန်း၊ ကလိ၊ တပ်ကလေး၊ အဝိုင်း၊ ဘုရားကလေး၊ ဥက္ကံရွာ ကုန်းတောရ၊ ဒေးစွန်ပါ ပျဉ်ပုံတော၊ လှည်းဘီးကွဲ၊ အနောက် တောတန်း၊ ဒိုက်ဦး၊ ဖအောင်ဝဲ၊ ရွှေကျင်ခရွဲ၊ ဝမ်းပတော၊ ကျိုက်ထို၊ ကော့ကဒွတ်၊ ဘီးလင်း၊ ကျိုက်ကော်၊ သထုံ၊ ဂေါ့၊ မုတ္တမတောင်ရိုး၊ မော်လမြိုင်၊ ဖားအံ၊ ဘီလူးကျွန်း၊ မုဒုံ၊ ကျုံဒိုး၊ ကော့ကရိတ် စသည်တို့သို့ အနှံ့ကြွ၍ သီတင်းသုံးကာ တောရဂိုဏ်းအနှံ့ ကြီးပွားလေသည်။

ဆရာတော်သည် ရဟန်း ၁၂ ဝါမှစ၍ ဓုတင် ၁၀ ပါး ၁၁ ပါး၊ ၁၂ ပါး၊ ၁၃ ပါး ရံခါရသည်။ ပိဏ္ဍပါတ် ဓုတင်၊ သပဒါနစာရိဓုတင်တို့ဖြင့် နေ့စဉ် ဆွမ်းခံ၏။ ဆွမ်းဘုဉ်းပေးသောအခါ ဧကာသနိက် ပတ္တပိဏ် ဓုတင် တနေရာတည်း တခွက်တည်းဘုဉ်းပေးသည်။ သက်သတ်လွတ်သာ အမြဲသုံးဆောင်သည်။ ဆရာတော်သည် အတည်အကျ တနေရာတည်း တဆက်တည်း မနေလို၊ တနေရာတွင် အများဆုံး နှစ်ဝါဆိုလေ့ရှိသည်။ ဆရာတော်၏ ကျောင်းသည်လည်း များသောအားဖြင့် ပိတ်မိုး ကျောင်းတို့ဖြစ်ကြသည်။ ထိုသို့ ဆရာတော်သည် တနေရာတည်း ခန့်ခန့်ထယ်ထယ် ကျောင်းကြီးနှင့် အမြဲ နေလေ့မရှိပဲ အနှံ့သွားလာ နေထိုင်သောကြောင့်လည်း တောရ ဂိုဏ်းကြီး အရပ်ရပ်၌ ပျံ့နှံ့ခြင်းဖြစ်သည်။ ဆရာတော်သည် မိမိနှင့်တွေ့သမျှသော ရဟန်းတို့အား တောကျောင်း နေချင်အောင် ဟောလေ့ရှိသည်။ ဆရာတော်သည် လာဘ်သပ်ပကာ အလွန်ပေါသော်လည်း ရောက်ရာ အရပ်ရှိ သံဃာတော်တို့အား အကုန် စွန့်လှူလေ့ရှိ၏။ ကိုယ်တော်တိုင်မူကား သပိတ်တလုံး၊ သင်္ကန်းသုံးထည်၊ သားရေနွယ်တချပ်ဖြင့် ရောင့်ရဲတော်မူ၏။ ဘုန်းတော်ကြီး ဦးသီလသည် ယင်းသို့ ကောင်းမြတ်သော အကျင့်သီလ တန်ခိုး

ကြောင့် ဆင်မနင်း ကျားမကိုက်သော ဂုဏ်ရှိတော်မူသည်ဟု ဆိုကြသည်။

ဆရာတော် ဦးသီလသည် ဝိနည်းသိက္ခာ အထူးတင်းကြပ်စွာ စောင့်စည်းတော်မူ၍ ဘုန်းကြီးလှသည်။ ဆရာတော်သည် အကျင့်သီလကိုသာ ဂရုဓမ္မ စိုက်ထုတ်သည် မဟုတ်၊ ပရိယတ္တိသာသနာ ဖွံ့ဖြိုးမှုကိုလည်း အလွန်လိုလားတော်မူသည်။ ပဲခူးတောရဂိုဏ်း ဝိနည်းစာပြန်ပွဲများကို ၁၂၃၃ ခုနှစ်မှစ၍ ကျင်းပခဲ့သည်။ သထုံမြို့ရှိ ဓမ္မိကာရာမ စာသင်တိုက်၊ ညောင်လေးပင် တောရကျောင်း၊ ရန်ကုန် ကျိုက္ကဆံကျောင်းတိုက်၊ ညောင်တုန်း ရွှေဟင်္သာတောရတိုက်၊ ဖြူးမြို့ ရွှေကျင် တောင်ကျောင်း၊ မြောက်ကျောင်းစသည်တို့ကို ဦးစီးတည်ထောင်ပေးသည်။ မြန်မာနိုင်ငံအရပ်ရပ်ရှိ မြို့ရွာများမှ ဘုန်းတော်ကြီးအား ကြွရောက်ချီးမြှင့်ရန် ပင့်ဖိတ်တိုင်း ငြင်းဆိုသည်မရှိ။ တတ်နိုင်သမျှ ကြွရောက် ချီးမြှင့်သည်ချည်း ဖြစ်သည်။ ထိုကြောင့်ပင် ဆရာတော် ပျံလွန်တော်မူသောအခါ နေရင်း ပဲခူးမြို့၌ မဟုတ်ပဲ၊ ဇလွန်မြို့သို့ သိမ်သမုတ်သွားရင်း ဖြစ်ရလေသည်။

ဆရာတော်သည် ၁၂၆၉ ခုနှစ် ကဆုန်လဆုတ် ၄ ရက် တနင်းလာနေ့ သက်တော် ၇၅ နှစ်၊ ဝါတော် ၅၅ ဝါ တွင် ဘဝနတ်ထံ ပျံလွန်တော်မူသည်။ ထိုနှစ် တပို့တွဲလဆန်း ၃ ရက်နေ့တွင် သာဓုကီဠန သဘင် ဆင်ယင် ကျင်းပပြီးစီးလေသည်။

**သီလဝ၊ ရမည်းသင်းစား**(မြန်မာ ၇၅၇ လွန်)။ ။အင်းဝဘုရင် မင်းကြီးစွာ စော်ကဲ လက်ထက် အကျော် လေးပါးဟူ၍ ထွန်းကားသည့် အနက် ရမည်းသင်းစား သီလဝသည် တပါး အပါအဝင် ဖြစ်သည်။ ကျန် သုံးပါးတို့မှာ သိခ်သူစောနှောင်းတပါး၊ အင်းရည်တုရင်တပါး၊ လယ်ကိုင်း ငခရာသား ငရွှေ တပါးတို့ဖြစ်သည်။ ရမည်းသင်းစား သီလဝကား လက်ရုံးရည် ထူးချွန်မှုကြောင့် ကျော်ကြားသည်။ သိခ်သူစောနှောင်း၏ ကြင်ယာတော် စောမြတ်နှင့်၊ သီလဝ ကြင်ယာတော် စောပုလဲတို့သည် ညီအစ်မအရင်းဖြစ်၍ သရက်မင်းရှင်စော၏သမီးတော်များချည်း ဖြစ်သည်။ ထို့ကြောင့် မင်းကြီးစွာစော်ကဲသည် သီလဝ၏ ယောက်ဖတော် ဖြစ်သည်။ သီလဝ၏နှမ ခမည်းမိကိုလည်း မင်းကြီးစွာစော်ကဲ မင်းဖြစ်တော်မူသောအခါ တောင်နန်း ထားတော် မူလေသည်။သီလဝနှင့် စောပုလဲတို့မှမြင်သော သမီးတော် မင်းလှမြတ်ကို မင်းကြီးစွာ၏သားတော်ဆင်ဖြူရှင်တရဖျား မိဖုရားမြှောက်သည်။ ဆင်ဖြူရှင် လွန်သော် မင်းလှမြတ်အား မင်းခေါင်ကြီး၊မိုးညှင်းမင်းတရားတို့ မိဖုရားမြှောက်ကြောင်းနှင့် ကျောက်စာတို့၌ ဆိုသည်။

အင်းဝ သတိုးမင်းဖျားသည် သက္ကရာဇ် ၇၂၉ ခုနှစ်တွင် နတ်ရွာစံသောအခါ မှူးမတ်အပေါင်း တိုင်ပင် ညီညွတ်ကြကာ ရမည်းသင်းစား သီလဝအား မင်းပြုရန် တောင်းပန်ကြလေသည်။ သီလဝကလည်း ‘ငါသည် တနေ့ကို စကား သုံးခွန်းလေးခွန်းမျှ မပြော၊ မင်းအဖြစ်ကို ငါလည်း အလိုမရှိ၊ အမြင့်မင်း တရဖျားစော်ကဲသည် မင်း၏ ယောက်ဖတော်လည်း ဖြစ်သည်။ နှလုံးရည် လက်ရုံးရည် နှင့်လည်း ပြည့်စုံသည်။ စော်ကဲကို မင်းမြှောက်ကြလေ’ဟု ဆိုကာ ထီးနန်းစည်းစိမ်ကို ငြင်းပယ်ခဲ့လေသည်။ ရည်ရွယ်ရင်း မရှိပဲ သီလဝ၏ အကြံပေးချက်အရ စော်ကဲမင်းဖြစ်ရသည်ကို ရည်၍ ‘မရွယ်ပဲ စော်ကဲမင်းဖြစ်’ ဟူသော စကား ပေါ်လာလေသည်။

သက္ကရာဇ် ၇၅၄ ခုနှစ်တွင် မိုးညှင်းရှမ်းတို့သည် ဆင်မြင်း အလုံးအရင်းနှင့်ချီ၍ မြေဒူးမြို့ကို တိုက်ကာ မြန်မာတို့ကို ထိပါးလာ၏။ မင်းကြီးစွာစော်ကဲသည် သိခ်သူစောနှောင်း၊ အင်းရည်တုရင်၊ လယ်ကိုင်း ငခရာသား ငရွှေတို့နှင့် အတူ ကိုယ်တော်တိုင် ရေအား ကြည်းအား ဆန်၍ ခုခံရန် ချီတက်၏။သို့ရာတွင် သိခ်သူစောနှောင်းနှင့် အင်းရည် တုရင်တို့သည် မြင်းကိုသာကျွမ်း၍ ဆင်မှာမကျွမ်းကျင်၊လယ်ကိုင်း ငခရာသား ငရွှေသည် ကာကိုသာ ကျွမ်း၍ မြင်း၌ မကျွမ်းကျင် သောကြောင့် မြန်မာတပ်များ ပျက်၍ ဆုတ်ခဲ့ရသည်။ ထိုအခါ မင်းကြီးစွာသည် အင်းဝမြို့ကို ခိုင်ခံ့အောင်စီရင်တော်မူ၍ တောင်ငူစား၊ တောင်တွင်းစား၊ ရမည်းသင်းစား၊ ဝတီးစား၊ညောင်ရမ်းစား၊ ပေါက်မြိုင်စား၊ ပင်လယ်စားတို့ကို စုဆောင်း ခေါ်ငင်လေသည်။ အများ မရောက်မီ ရမည်းသင်းစား သီလဝသည် အပြင်းချီလာ၍ ထီးပေါင်းကားမှ ကူးပြီးလျှင် သိခ်သူစောနှောင်းကို မြင်းတင်၍ လက်ယာက နေစေ၏။ အင်းရည်တုရင်ကို မြင်းတင်၍ လက်ဝဲက နေစေသည်။ ငခရာသား ငရွှေနှင့် မယားယုံ တီတလတို့ကို ကာကိုင်စေ၏။ သီလဝမှာမူ စောရဲစွာ ဟူသော ဆင်ကို စီး၍ တိုက်လေသည်။ ထိုအခါ ရှမ်းတပ် တဆဲ့ငါးတပ်လုံးပျက်၍ စစ်ကိုင်းမှသည် ရွာသစ်တိုင်အောင် လူသေကောင်များ အထပ်ထပ်ပြည့်၏။ သီလဝလည်း ရှမ်းတို့ကိုအောင်မြင်လျှင် ဆင်မြင်းသုံ့ပန်း လက်နက်ကရိယာကို မင်းကြီးစွာအား ဆက်စေ၍ သူကိုယ်တိုင်မူ ဘုရင့်ထံ မဝင်တော့ပဲ ရမည်းသင်းသို့ ပြန်လေသည်။

မင်းကြီးစွာလည်း သီလဝ မဝင်ပဲ သွားလေသည်ကို မသက်မသာ ရှိတော်မူနေသဖြင့် စည်းတပြစ်က ‘သီလဝ သည် လူမှု၌ မလိမ်မာသည် ဖြစ်၍ ခြေတော်ဦးတိုက် မဝင်ပဲ သွားမိလေသော် ငြားလည်း အမျက်တော် မရှိသင့်။ ပသေနဒီ ကောသလမင်းကြီးသည် သန္တတိမည်သောအမတ်အား ပစ္စန္တရာဇ် ဇနပုဒ် ရွာငယ်တရွာကို အောင်မြင်ကာမျှ

ဖြင့် ထီးဖြူမြှောက်စည်နှင့်တကွ မင်း၏စည်းစိမ်ကို ခုနစ်ရက် ပေး ဘူး ပါ သည်'ဟု လျှောက် ထား မှ နှလုံး တော် ပြေ ၍ သီလဝထံ ဆုလပ်များ ပို့လေသည်။ သီလဝကား လိုရင်း အလုပ်ကိုသာ ပြီးအောင်လုပ်၍ မျက်နှာရအောင် မပြုလို ဟန်ရှိသည်။

သက္ကရာဇ် ၇၅၇ ခုနှစ်တွင် ရမည်းသင်းစား သီလဝ ကြမ္မာကုန်၍ ညီမဟာပြောက်အား ရမည်းသင်းမြို့ကို နောင် တော် အလုံးအရင်းနှင့်တကွ ပေးလေသည်။

သီလဝကား အလွန် ဣန္ဒြေကြီးသူ ဖြစ်၏။ တနေ့ကို စကား သုံးလေးခွန်းမျှပင် မပြောသူ ဖြစ်သည်။ တသက် လုံးသော်မှ သုံးခါသာ ပြုံးရယ်ဘူးသောဟူ၏။

အခါတပါး တောတွင်းသား တယောက်သည် သီလဝ အား ကြက်လက်ဆောင် ဆက်မည်ဟု အိမ်တော်သို့ တက် သော် သီလဝအား မမြင်၍ လက်ဆောင်နှင့် ဆင်းသွားလေ သည်ကို ကြင်ယာတော် စောပုလဲ မြင်လျှင် 'ငါသည် မင်း ကေရာဇ်မယား ဖြစ်ပါလျက် ငါ့ကိုမျှမဆက်ခဲ့ပဲ ပြန်သွား လေသည်။ ငါတို့သည်ကား ယောကျ်ားတို့ ဘုန်းကိုသာမှီ၍ အသက်မွေးရချေသည်'ဟု သီလဝလာသောအခါ ရွှေဖလား နှင့်ဆီး၍ ခြေကို ရေဆေးနှင့်သည်ကို ငါ့မယားကား ယနေ့ အကြောင်းရှိမည်ဟု ပြုံးသောဟူ၏။

အခါတပါး မြို့ထိပ်တွင် နေစာလှုံ၍ နေခိုက် လူထွက် တယောက် ဦးရစ်ဖောင်းထုပ်နှင့်တကွ ကျုံးထဲတွင် ရေငုပ်၍ ချိုးသည်ကိုမြင်လျှင် ရယ်သောဟူ၏။

တကြိမ်လည်း ရ မည်း သင်း မြို့ ဝန်း ကျင် ရှမ်းစစ်သည် အထပ်ထပ် ရောက်လာသည်ကို ကြက်ပွဲက မထသဖြင့် ကြင် ယာတော် စောပုလဲသည် ရင်ပတ်တီး၍ ရင်ဝတ်ကျွတ်ကျွတ် ဦးဆံ ဖားလျား နှင့် မြို့ ပြင် တွင် လူ သူ အ ပြည့် ရှိသည်ကို အလေးမမူပဲ ကြက်ပွဲမှာသာ သို့စဉ် နေဘိသည်ဟု ကြက် ပွဲရှိရာသို့ ပြေးလာသည်ကို ငါ့မယား ဗျာပါကြီးလှလေသည် ဟု ပြုံးရယ်ပြီးလျှင် သူရဲကောင်း မယားယုံ တီတလတို့နှင့် အတူ ရှမ်းတို့အား ထွက်၍တိုက်၏။ ရှမ်းတို့ နောက်ဆုတ် ပေးရသောဟူသည်။

**သီဝလိထေရ်။** ။သီဝလိထေရ်သည် ဂေါတမဘုရားသခင် လက်ထက် လာဘ်လာဘ ပေါများသည့်အရာ၌ ဧတဒဂ် ရသော ရဟန္တာဖြစ်သည်။ မြတ်စွာဘုရား သခင်၏ လကျ်ာ တော်ရံ လေးကျိပ်တွင် တပါး အပါအဝင်လည်း ဖြစ် လေသည်။

သီဝလိထေရ်၏ခမည်းတော်နှင့်မယ်တော်တို့ကား မဟာ လိ မင်းသားနှင့် ကောလိယပြည့်ရှင် ကောလိယမင်းကြီး၏ သမီးတော် သုပ္ပဝါသ မင်းသမီးတို့ ဖြစ်သည်။ မယ်တော် သုပ္ပဝါသသည် သားတော် သီဝလိထေရ် အလောင်းအား သန္ဓေ ရှိသောအခါ ဖွားရန် နေ့ရက် စေ့ရောက်သော်လည်း မဖွားမြင်နိုင်ပဲ ရှိလေသည်။ ယင်းသို့ဖြင့် သန္ဓေသားကို လ သာမက နှစ်နှင့်ချီ၍ လွယ်ခဲ့ရရာ ခုနစ်နှစ်ပင် စေ့ရောက်ခဲ့ လေသည်။ မီးမဖွားနိုင်ပဲ ဒုက္ခဝေဒနာ အကြီးအကျယ် ခံစားနေရစဉ် မြတ်စွာဘုရားအား ဖူးမြော်လိုကြောင်း တောင့်တသဖြင့် ကြင်ယာတော်မင်းသားက မြတ်စွာဘုရား အား အကျိုးအကြောင်း လျှောက်ထား ပင့်ဖိတ်သော် ဘုရားသခင်က 'သုပ္ပဝါသ မင်းသမီးသည် ချမ်းသာခြင်း ရှိသည် ဖြစ်စေသတည်း။ ရောဂါအနာမဲ့ကင်း ဆင်းရဲခြင်း မရှိသည် ဖြစ်စေသတည်း။ အနာ မရှိသည် ဖြစ်၍ သားကို ဖွားစေသတည်း' ဟု ရွှေနှုတ်တော်မှ မြွက်ဟ ဆုပေးလိုက် သည်နှင့် တပြိုင်နက် သုပ္ပဝါသမင်းသမီးသည် သားတော် ကလေးကို ချောမောစွာ ဖွားနိုင်လေသည်။ ယင်းသို့ သေ တွင်းမှတက်၍ အမိအဖတို့ ပူပန်ခြင်း ငြိမ်းအေးစေသဖြင့် သားတော်ကလေးအား သီဝလိဟု အမည်ပေးကြလေ သည်။ သားတော် သီဝလိသည် အမိဝမ်း၌ ခုနစ်နှစ်နှင့် ခုနစ်ရက် ကိန်းအောင်းခဲ့ရရာ အမိဝမ်းက ကျွတ်သည်နှင့် တပြိုင်နက် ခုနစ်နှစ်သားအရွယ်သို့ တဟုန်တည်း ကြီးပြင်း သွားလေသည်။

သီဝလိကို ဖွားမြင်ပြီး နောက်တနေ့တွင် မြတ်စွာဘုရား နှင့်တကွ သံဃာတော် ၅၀၀ ကို နန်းတော်သို့ ပင့်၍ ဆွမ်း လုပ်ကျွေးလေသည်။ ဆွမ်းဘုဉ်းပေးပြီးသောအခါ ရှင်သာရိ ပုတ္တရာအား တရား အနုမောဒနာ ပြုရန် မြတ်စွာဘုရားက အမိန့်တော်ရှိသဖြင့် ရှင်သာရိပုတ္တရာသည် ပဋိသန္ဓေ နေရ ခြင်း၏ ဆင်းရဲဒုက္ခရောက်ပုံ ဇာတိ ဒုက္ခကို အကျယ်ချဲ့၍ ဟောတော်မူလေရာ ဘဝ အဆက်ဆက်က ဆည်းပူးခဲ့သည့် ပါရမီ အဆောက်အအုံ ကြီးမားသည့် ပုဂ္ဂိုလ် ဖြစ်သည့် အတိုင်း သီဝလိ မင်းသားက ရှင်သာမဏေ ပြုပေးပါရန် လျှောက်ထား တောင်းပန်လေသည်။ မိဖ နှစ်ပါး၏ ခွင့်ပြု ချက် အရ ရှင်သာမဏေ ပြုပေးရန် ခေါင်းရိတ်ပေးစဉ် ရှင်မောဂ္ဂလာန် ကိုယ်တော်ကြီးက သုံးဆဲ့နှစ်ကောဋ္ဌာသ ကမ္မဋ္ဌာန်းကို ဟောတော်မူသဖြင့် သီဝလိသည် တရား ကမ္မဋ္ဌာန်းကို နှလုံးသွင်းလေရာ ဆံပင် ရိတ်ပြီးသည်နှင့် တပြိုင်နက် ကိလေသာ ကုန်ခန်း၍ ရဟန္တာ အဖြစ်သို့ ရောက်သွားလေသည်။

ရှင်သာမဏေ ဖြစ်သည်မှ စ၍ များစွာသော ဒါယကာ ဒါယိကာမတို့က ပစ္စည်းလေးပါးဖြင့် နေ့စဉ်နေ့တိုင်း သုံး မကုန်အောင် လှူဒါန်းကြသောကြောင့် ရှင်သီဝလိအား အမှီပြု၍ သံဃာအပေါင်း မကြောင့်မကြ စားသောက် သုံး ဆောင်ရလေသည်။ အသက် ၂၀ ပြည့်သောအခါ ရှင်သီဝလိ သည် ရဟန်းအဖြစ်ကို ယူတော်မူသည်။ လာဘ်လာဘတို့ သည်လည်း ဆထက်ထမ်းပိုး တိုးသည်ထက် တိုး၍သာ

လာတော့သည်။ ရောက်လေရာ အရပ်၌ လှူဒါန်းသူများလှသည်။

အခါတပါး မြတ်စွာဘုရားသည် ရှင်သာရိပုတ္တရာ အမှူးရှိသော သံဃာတော် ၅၀၀ နှင့်တကွ ရှားတောကျောင်းသို့ ကြွတော်မူရာ ခရီးဖြတ်လမ်းမှ ကြွတော်မူသည်။ ထိုဖြတ်လမ်းသည် တောလမ်းခရီး ဖြစ်သဖြင့် ဆွမ်းကွမ်းအတွက် အခက်ကြုံမည်ကို ရှင်အာနန္ဒာက စိုးရိမ်သဖြင့် ဘုရားရှင်အား လျှောက်ထားသောအခါ မြတ်စွာဘုရားက 'ချစ်သား အာနန္ဒာ ဤရဟန်းပရိသတ်တွင် သီဝလိပါသည် မဟုတ်လော။ သီဝလိပါလျှင် မစိုးရိမ်လင့်' ဟု မိန့်တော်မူကာ တောအုပ်သို့ ဝင်လေသည်။ တောခရီးတလျှောက်၌ နေထိုင်ကြကုန်သော နတ်ဘီလူးများသည် ဘုရားနှင့်တကွ သံဃာတော် ၅၀၀ အား ဆွမ်းကွမ်းများ လှူဒါန်းကြလေသည်။ ရှင်သီဝလိအားလည်း ပစ္စည်းမျိုးစုံဖြင့် စုပုံ လှူဒါန်းကြသဖြင့် သံဃာများမှာ မျှတစွာ သုံးဆောင်ကြရရုံမက ပိုလျှံ၍ပင် နေလေသည်။ ရှားတောကျောင်း၌ ဘုရားနှင့်တကွ သံဃာတော် ၅၀၀ သည် တလပတ်လုံး ရှင်သီဝလိကို အကြောင်းပြု ရအပ်သော ပစ္စည်းလေးပါးဖြင့် မျှတစွာ နေကြရလေသည်။

ရဟန်းသံဃာတို့လည်း လူနေဝေးသော တောကြီးမျက်မည်းထဲ ဖြစ်ပါလျက် သီဝလိထေရ် တန်ခိုးတော်ကြောင့် လာဘ်လာဘများ ပေါများသည်ကို အံ့ဩချီးမွမ်းနေကြလေသည်။ ထိုသို့ပြောဆိုနေသည်ကို မြတ်စွာဘုရားသခင် သိမြင်တော်မူသောအခါ 'ဧတဒဂ္ဂံ ဘိက္ခဝေ မမ သာဝကာနံ လာဘီနံ ယဒိဒံ သီဝလိ' ဟူ၍ လာဘ်လာဘ ပေါများသော ရဟန်းတို့တွင် သီဝလိထေရ်သည် အမြတ်ဆုံး ဟု ဧတဒဂ် ထားတော်မူပြီးနောက် သီဝလိထေရ်၏ အတိတ်ဇာတ်ကို ဟောတော်မူသည်။

သီဝလိထေရ်အလောင်းကား ပဒုမုတ္တရဘုရားလက်ထက်တွင် သာမန် အမျိုးသားကလေးမျှသာ ဖြစ်သည်။ ပဒုမုတ္တရဘုရားသခင် တရား ဟောကြားနေစဉ် ထိုအမျိုးသားကလေးသည် ပရိသတ်အစွန်မှ တရားတော်ကို နာကြားနေခိုက် သုဒဿန မည်သော ရဟန်းတပါးအား လာဘ်လာဘအရာ၌ ဘုရားသခင်က ဧတဒဂ် ထားတော်မူသည်ကို ကြားရသောအခါ သုဒဿန ရဟန်းကဲ့သို့ ဖြစ်လိုလှသဖြင့် ဘုရားနှင့်တကွ သံဃာ ၅၀၀ ကို နောက်တနေ့မှ စ၍ ခုနစ်ရက်ပတ်လုံး ဆွမ်းဖိတ်၍ကျွေးကာ သင်္ကန်းတစုံစီ ကပ်လှူပြီးလျှင် 'ဤကောင်းမှုကြောင့် ဘဝဆက်တိုင်းစည်းစိမ်ဥစ္စာ ရတနာငွေငွေ ဆန်ရေစပါး ပေါများကြွယ်ဝ၍ အဆုံးဘဝနောက်ကာလ၌ သုဒဿန ရဟန်းကဲ့သို့ လာဘ်လာဘ ပေါများသောအရာ၌ ဧတဒဂ် တင်ရသော ရဟန်း ဖြစ်ရလိုပါ၏' ဟု ဆုတောင်းလေသည်။ ထိုဘဝမှ လွန်ပြီးနောက် လူ့ပြည် နတ်ပြည် လူးလာ စုန်ဆန်ကာ ကမ္ဘာများစွာ ချမ်းသာသုခကို ခံစား၍ နေလေသည်။ ၉၁ ကမ္ဘာအထက် ဝိပဿီဘုရား လက်ထက်တော်၌မူကား သီဝလိထေရ် အလောင်းတော်သည် ဗန္ဓုမတီမြို့နှင့် မနီးမဝေး တခုသော ရွာငယ်ကလေးတွင် ဆင်းရဲသား အမျိုး၌ ဖြစ်ရရှာ၏။ တနေ့သ၌ ဗန္ဓုမတီမင်းနှင့် တိုင်းသူပြည်သားတို့ အလှူပြိုင်ကြလေသည်။ ထိုအခိုက် သီဝလိအလောင်း ဆင်းရဲသားလည်း တောတွင်းမှ နို့ဓမ်းအိုးနှင့် ပျားအုံကြီးကို ထမ်းကာ မြို့တွင်းသို့ အရောင်းလာရာ မြို့စောင့်သူများက အသပြာ အဆမတန်ပေး၍ ဝယ်ကြလေ၏။ အဘယ်ကြောင့် ဤမျှ အဆမတန် ပေး၍ ဝယ်ကြသည်ကို မေးမြန်း သိရှိရသောအခါ သီဝလိထေရ် အလောင်းသည် ကိုယ်တိုင် လှူဒါန်းတော့မည်၊ မရောင်းတော့ဟုဆိုကာ ဘုရားသခင် ကိုယ်တော်မြတ်အား ကိုယ်တိုင် သွားရောက် လှူဒါန်းပြီးလျှင် ပဒုမုတ္တရဘုရား လက်ထက်တော်ကအတိုင်း လာဘ်လာဘ ပေါများရန် ဆုတောင်းခဲ့ပြန်သည်။

ထိုဆင်းရဲသား ဘဝမှ လွန်မြောက်၍ လူ့ပြည်နတ်ပြည် စုန်ဆန် လည်ပြီးနောက် အခါတပါး ဗာရာဏသီပြည် ဗြဟ္မဒတ်မင်းအား ပြည်ထောင်ချင်းချင်း မင်းတပါးက တိုက်ခိုက် သုတ်သင်၍ မိဖုရားကြီးအား သိမ်းပိုက်ကာ ဗာရာဏသီပြည်၌ စိုးစံနေလေသည်။ သားတော်ကလေးမူကား ဘေးလွတ်ရာသို့ တိမ်းရှောင်နေလေသည်။ သားတော်ကလေး အရွယ်ရောက်လာသောအခါ ခမည်းတော် အရိုက်အရာကို တိုက်ယူရန် မယ်တော်နှင့်တိုင်ပင်ရာ ဗာရာဏသီမြို့တံခါးများ အခိုင်အလုံ ပိတ်၍ အတွင်းက လူများ အစာတော်ပြတ်အောင် လုပ်ရန် အကြံပေးလေသည်။ အကြံပေးသည့်အတိုင်း ခုနစ်နှစ် ခုနစ်ရက်တိတိ လုပ်ကြံရာ နောက်ဆုံး၌ ဗာရာဏသီမြို့ကို ရလေ၏။ ထိုဝိပါကဝဋ်ကြောင့် သီဝလိသတို့သားသည် နောက်ဆုံးဘဝ၌ ခုနစ်နှစ် ခုနစ်ရက်လုံးလုံး အမိဝမ်းတွင်း၌ ကိန်းအောင်းရသည့် ဇာတိဒုက္ခကို ခံစားရခြင်း ဖြစ်လေသည်။ အလှူအတန်း ပေးကမ်း ရက်ရော၍ လာဘ်လာဘကို ဆုတောင်းခဲ့သောကြောင့် လာဘ်လာဘ ပေါများ၍ ဧတဒဂ်ရတော်မူခြင်း ဖြစ်လေသည်။

လာဘ်လာဘ ရှင်ပျလိုသူတို့သည် 'လာဘီန မုတ္တမော ထေရော၊ သီဝလိ ဣတိ ဝိဿုတော၊ သော ရဟော ပစ္စယာ ဒီနံ၊ သဒါ သောတ္ထိ ကရောတု မေ' စသည့် သီဝလိ ဂါထာကို ရွတ်အံ သရဇ္ဈာယ်၍ခြင်း၊ သီဝလိထေရ်၏ ပုံတော် ထုလုပ်ကိုးကွယ်၍ခြင်း၊ သီဝလိထေရ် ဓာတ်တော် ကိုးကွယ်၍ခြင်း ပူဇော် ဆုတောင်းကြလေသည်။

**သီဟဗာဟု။** ။သီဟဗာဟုမင်းသည်ဂေါတမဘုရားသခင် မပွင့်မီ အနှစ် ၁၀၀ အတွင်းက ဇမ္ဗူဒိပ်ကျွန်း လာဠရဋ္ဌတိုင်း၊

သီဟပူရမြို့တွင် နန်းစံသော မင်းဖြစ်သည်။ ခြင်္သေ့နှင့် လူသားတို့ သင့်ရာမှ မြင်သော သားတော်တည်း။ လင်္ကာဒီပခေါ် သီဟိုဠ်ကျွန်းကို စတင် တည်ထောင် အုပ်စိုးသော ဝိဇယမင်း၏ ခမည်းတော်လည်း ဖြစ်သည်။

ဂေါတမဘုရားသခင် မပွင့်မီ အနှစ် ၁၀၀ ခန့်၌ ဝင်္ဂတိုင်း (ယခု ဗင်္ဂလားပြည်နယ်) ဝင်္ဂပြည်ကို အုပ်စိုးသော ဝင်္ဂရာဇ်မင်းသည် ကာလိင်္ဂမင်း၏ သမီးတော်ကို ယူဆောင်၍ မိဖုရားပြုပြီးလျှင် ထီးနန်းစံလေသည်။ ထိုမင်းနှင့် မိဖုရားတို့၌ သမီးတော်တပါး ဖွားမြင်၏။ မင်းသမီးကို ဖွားစအခါ ကပင် နိမိတ်ဖတ်သော ပညာရှိတို့က ဇာတာစန်းလင်္ဂကို တွက်ချက်ပြီးနောက် ကေသရာဇာ ခြင်္သေ့မင်း၏ မြောက်သားတော် ဖြစ်လတ္တံ့ဟု နိမိတ်ဖတ်ကြလေသည်။ ထိုကြောင့်လည်း မင်းသမီးအား ကေသရီဟု အမည်ပေးလေသည်။ အရွယ်ရောက်သောအခါ ကေသရီသည် အလွန်လှပတင့်တယ် ရှုချင်ဖွယ်သော အဆင်းအင်္ဂါရှိ၏။ ကာမဂုဏ်တို့၌ ခုံမင်မက်မောအားကြီး၍ မယ်တော် မိဖုရားပင် တားမြစ်ဆုံးမ မရနိုင် ရှိရကား ပြည်မှ နှင်ထုတ်လိုက်ရလေသည်။ မင်းသမီးလည်း စိတ်အလိုအတိုင်း နေလိုရကား မထင်ရှားသော ဆင်းရဲသူမယ်၏ အသွင်ဖြင့် မြို့မှထွက်လာစဉ် မဂဓတိုင်းသို့ သွားအံ့သော လှည်းကုန်သည်တို့နှင့် တွေ့၍ ထိုကုန်သည်တို့ကို အဖော်ပြုပြီးလျှင် တောအုပ်ခရီးဖြင့် သွားလေသည်။ လာဋတိုင်းဖြစ်သော တောအုပ်သို့ ရောက်သောအခါ ထိုတောအုပ်၏အတွင်း ကျောက်ဂူ၌နေသော ကေသရာဇာ ခြင်္သေ့မင်းသည် မိမိနေရာဂူမှ ထွက်၍ လှည်းတို့နောက်လိုက်ရာ လှည်းသမားတို့ ပြေးပုန်း ရှောင်ရှားကြကုန်၏။ မင်းသမီးမူကား နိမိတ်ဖတ်ဆရာတို့၏ ဟောစကားကို ကြားယောင်ကာ မကြောက်မရွံ့ပဲ ခြင်္သေ့ရှိရာသို့ ပက်ပင်းပါပြေးလေသည်။

ခြင်္သေ့မင်းလည်း မင်းသမီးကိုမြင်လျှင် ရှင်လန်းတပ်မက်သောစိတ် ရှိသဖြင့် မင်းသမီးအပါးသို့ ကပ်ကာ မင်းသမီးအား ကျောက်ကုံးအထက်၌တင်ပြီးလျှင် မိမိနေရာ ကျောက်ဂူသို့ ဆောင်၍ အတူတကွ နေထိုင်ကြလေ၏။ ရက်လရှည်လတ်သော် ထိုမင်းသမီးအား ခြင်္သေ့ကို စွဲ၍ ရသောကိုယ်ဝန်မှ သားတယောက် သမီးတယောက် အမြွာဖွားလေသည်။ သတို့သား၏ လက်ရုံး လက်မောင်း ခြေချောင်း အင်္ဂါတို့သည် ခြင်္သေ့မင်း၏ လက်မောင်း လက်ရုံးနှင့်တူသော အခြင်းအရာရှိရကား သတို့သားကိုမူ သီဟဗာဟု ဟူသော အမည်ပေးလေသည်။ သမီးကိုမူ သီဟသီဝလိဟု အမည်မှည့်သည်။ ခြင်္သေ့မင်းလည်း သားသမီးနှင့် ဇနီးတို့ကို ဂူ၌ထား၍ ဂူဝ၌ ကျောက်ဖျာပိတ်ကာ အစာရှာကျွေးလေသည်။

သီဟဗာဟုသည် အရွယ်သို့ ရောက်သော် အသွင်သဏ္ဌာန်မတူသော မိခင်နှင့် ဖခင်တို့ အဖြစ်ကို မိခင်အား မေးရာမှ အကြောင်း အလုံးစုံကို သိလေသည်။ တနေ့သ၌ ခြင်္သေ့မင်း အစာရှာသွားခိုက် သီဟဗာဟုသည် ကျောက်ဖျာကို ဖွင့်၍ အမိကို လကျ်ာပခုံးဖြင့်၊ နှမကို လက်ဝဲပခုံးဖြင့် ထမ်းဆောင်လျက် မယ်တော်၏ နေရပ်ဖြစ်သော ဝင်္ဂတိုင်းသို့ ရှေးရှု ပြေးလေ၍ တနေ့ချင်း ယူဇနာ ၂၀ သော ခရီးကို လွန်ကာ ဝင်္ဂတိုင်း နယ်စွန်ဖြစ်သော ပစ္စန္တရွာသို့ ရောက်လေသည်။ ပစ္စန္တရွာ၌ မင်းသမီး၏ ဦးရီးတော်သား အနုရက္ခ မင်းသည် အုပ်ချုပ်လျက် ရှိ၏။ အနုရက္ခစစ်သူကြီးနှင့် တွေ့၍ သားအမိသုံးယောက်က အကြောင်းစုံ ပြောပြသောအခါ အရီးတော် မိဖုရား၏ သမီးနှင့်မြေးများ ဖြစ်ကြောင်း သိသဖြင့် ဝင်္ဂမြို့သို့ ခေါ်ဆောင်သွားကာ ကေသရီအား မြောက်သားတော်အရာ၌ ထားလေသည်။

ခြင်္သေ့မင်းလည်း အစာရှာရာမှ အပြန် ဇနီးနှင့် သားသမီးတို့ကို မမြင်သော် အစာမစားနိုင် မအိပ်နိုင်ဖြစ်ကာ တောတောင် မြစ်ဝှမ်း အနှံ့ရှာဖွေလေသည်။ မတွေ့သော် လူတို့နေရာ တိုင်းစွန်ရွာနားကို ဝင်၍ အစဉ်လှည့်ပတ်ကာ ရှာဖွေသဖြင့် ခြင်္သေ့ဝင်သမျှ ရွာတို့သည် ပျက်စီးကြလေကုန်သည်။ ထိုအကြောင်းကို ဝင်္ဂရာဇ်မင်းကြီး ကြားသော် နှောင့်ယှက် ဖျက်ဆီးနေသော ခြင်္သေ့ကို ဖမ်းဆီး သတ်ဖြတ်နိုင်သောသူအား အသပြာ တထောင်ထုပ် ပေးမည့်အကြောင်း စည်လည်စေလေသည်။ ဖမ်းနိုင် သတ်နိုင်သူ မပေါ်သဖြင့် အသပြာတထောင်မှ နှစ်ထောင်၊ နှစ်ထောင်မှ သုံးထောင်အထိ စည်လည်သောအခါ "ဤခြင်္သေ့ကား ငါတို့သားအမိကို မတွေ့သမျှ ရှာဖွေလိမ့်မည်။ မင်း၏ အသပြာထုပ်ကို ယူ၍ ငါသတ်မှ ဤခြင်္သေ့ရန် ငြိမ်းလွယ်မည်"ဟု သီဟဗာဟုသည် ကြံပြီးလျှင် မယ်တော်အား တိုင်ပင်လေသည်။ မယ်တော်က နှစ်ကြိမ်တိုင်အောင် တားမြစ်လေသည်။ သုံးကြိမ်မြောက်၌ကား မယ်တော်အား မပန် ကြားတော့ပဲ အသပြာထုပ်ကို လက်ခံလိုက်လေသည်။

ခြင်္သေ့ရန်ကို နှိမ်နင်းရန် သီဟဗာဟုက လက်ခံလိုက်ကြောင်းကို မင်းကြီး ကြားသောအခါ သီဟဗာဟု မင်းသားအား ခေါ်တော်မူ၍ "အမောင်သည် အကယ်၍ ခြင်္သေ့ကို ဖမ်းနိုင်သတ်နိုင်သည် ဖြစ်အံ့။ ဤတိုင်းရပ်အားလုံးကို မင်းပြုစိမ့်သောငှာ အမောင်အား ငါပေးမည်" ဟု ကတိပေးလေသည်။ သီဟဗာဟုလည်း ဝန်ခံ၍ ခားလုံ လေးမြှားတို့ကို ယူပြီးလျှင် ခြင်္သေ့မင်းနေရာ ကျောက်ဂူသို့ သွား၏။ ခြင်္သေ့မင်းလည်း အဝေးမှ လာနေသော သားကို မြင်လျှင် ချစ်ခင်သော မေတ္တာစိတ်ဖြင့် ကိုယ်လုံးနှံ့လျက် မြော်လင့်ကာ နေ၏။ မင်းသားလည်း မြှားရောက်နိုင်သော နေရာမှ ရပ်တံ့၍ မြှားဖြင့် ပစ်လွှတ်၏။ ခြင်္သေ့လည်း သား၌ ချစ်

ခြင်းမေတ္တာ အဟုန်ဖြင့် တုန်လှုပ်လျက် နေသောကြောင့် ပစ်လွှတ်သောမြှား မစူးပဲ နဖူးကို မှန်ပြီးမှ ပြန်လည်၍ မင်းသားခြေရင်းသို့ ကျ၏။ သီဟဗာဟုလည်း အကြိမ်ကြိမ် ပြန်ပစ်၏။ ပစ်ဖန်များသော် ခြင်္သေ့သည် အမျက်ထွက်သဖြင့် လိုက်၍ နှိပ်စက်ခြင်းငှာ ကိုယ်ကို လှုပ်ရှား၏။ ထိုအခါမှ ပစ်လွှတ်လိုက်သော မြှားသည် နဖူးမှ စူးဝင်၍ ရင်သားမှ ထွင်းဖောက်ကာ နောက်ကျောကုန်းသို့ ထွက်ပြီးလျှင် မြေသို့ ဝင်လေ၏။ သီဟဗာဟု မင်းသားသည် သေလေသော ခြင်္သေ့ဦးခေါင်းကို မုင်ဆံနှင့်တကွ ဖြတ်၍ မင်းအား ပြခြင်းငှာ ယူဆောင်လာခဲ့သည်။

ခြင်္သေ့ရန်ကို နှိမ်နင်းပြီး၍ သီဟဗာဟုမင်းသား ဝင်္ဂရာဇ်ပြည်သို့ ပြန်လာသောအခါ ဝင်္ဂရာဇ်မင်းကြီး နတ်ရွာစံနှင့်နေလေပြီ။ ဝင်္ဂရာဇ်မင်း၌လည်း သားတော် မရှိသည် တကြောင်း၊ သီဟဗာဟု မင်းသားသည်လည်း မင်းမြေးဖြစ်သည်တကြောင်း၊ ခြင်္သေ့ရန်ကို နှိမ်နင်းနိုင်ခဲ့သည် တကြောင်းတို့ကြောင့် မှူးမတ်အပေါင်းတို့က သူ့အား မင်းပြုပါဟု ဆောက်နှင်းကြကုန်၏။ သီဟဗာဟု မင်းသားလည်း ဝင်္ဂရာဇ် ထီးနန်းကို လက်ခံပြီးနောက် မယ်တော်၏ ခင်ပွန်းဖြစ်သော ဦးရီးစစ်သူကြီး အနုရက္ခအား ထီးနန်းကို အပ်ကာ မင်းပြုစေ၏။ ကိုယ်တိုင်မူကား နှမတော် သီဟသီဝလိကို မိဖုရားပြု၍ လိုက်လိုသော သူအပေါင်းကို ခေါ်၍ ဖွားတော်မူရာ ဌာနဖြစ်သော လာဠတိုင်း တောအုပ်တွင် ခြင်္သေ့ဂူကို အဦးထားကာ တောအုပ်ကို သင်ပြီးနောက် မြို့တည်နေလေသည်။ ယင်းမြို့ကိုလည်း သီဟပုရမြို့ဟု သမုတ်သည်။ ထက်ဝန်းကျင် ယူဇနာတရာ ရှိသော ဟူ၏။ ယခု ဗီဟာပြည်နယ် တောင်ပိုင်း ဆောဋ္ဌနာဂပုရခရိုင် အတွင်း၌ တည်ရှိလေသည်။

သီဟဗာဟုမင်းကြီးသည် နှမတော် သီဟသီဝလိကို မိဖုရားမြှောက်၍မင်းပြုသည်တွင် ထိုမိဖုရားမှ အစုံအစုံသော သားယောကျ်ားတို့ကို ၁၆ ကြိမ် ဖွားသည်ဖြစ်၍ သားတော် သုံးကျိပ်နှစ်ယောက် ထွန်းကားလေသည်။ အကြီးဆုံးသားတော်ကား သီဟိုဠ်ကျွန်းကို တည်ထောင် ဖန်ဆင်းတော်မူသော ဝိဇယမင်း ဖြစ်၏။ (သီဟိုဠ်ကျွန်း — လည်းရှု။)ထိုအောက်သားတော်သည် သုမိတ္တ မည်၏။ ထိုအောက် သားတော်တို့၏အမည်ကို ကျမ်းဂန်တို့၌ မတွေ့ရချေ။

**သီဟသူ မင်းများ။** ။မြန်မာနိုင်ငံ သမိုင်းတွင် သီဟသူဘွဲ့ခံမင်းများ ပေါ်ထွန်းခဲ့ရာ ပုဂံမင်းဆက်မှ တပါး၊ ပင်းယမင်းဆက်မှ နှစ်ပါး၊ အင်းဝမင်းဆက်မှ နှစ်ပါး ပေါင်း ငါးပါးတို့မှာ ထင်ရှားသော မင်းများ ဖြစ်သည်။

**သီဟသူ၊ ပြည်စား (မြန်မာ ၆၄၈ လွန်)။** ။ပြည်စားသီဟသူသည် ပုဂံမင်းဆက်တွင် နရသီဟပတေ့ မင်းအားဆက်ခံသူ ဖြစ်သည်။ နရသီဟပတေ့ တရုပ်ပြေးမင်းနှင့် မိဖုရားငယ် ရှင်မောက် တို့မှ မြင်သော သားတော် ဖြစ်သည်။ ပြည်ကို စားရသောကြောင့် ပြည်စားသီဟသူ ဟု တွင်သည်။ (နရသီဟပတေ့မင်း — ရှု။)

ခမည်းတော် နရသီဟပတေ့သည် သီဟသူအား အကျီစယ် လွန်သည်နှင့် သီဟသူက ခမည်းတော်အား နှလုံးထောင့်လေသည်။ ခမည်းတော်မင်းကြီး တရုပ်တို့ရန်မှ ရှောင်၍ မွန်တို့ပြည်တွင် သွားရောက် စံနေပြီးနောက် တရုပ်တပ်များ ဆုတ်ခွာပြီကြားသည်နှင့် ပုဂံသို့ ဆန်တက်လေသည်။ ခမည်းတော် ပြည်မြို့သို့အရောက် ပြည်မင်း သီဟသူသည် အဆိပ်ဆေးခတ်၍ ပွဲတော်ဆက်ကာ အတင်းအကျပ်ပွဲတော်တည်စေသည်။

နရသီဟပတေ့မင်းကြီး အနိစ္စရောက်တော်မူလျှင် ပြည်စား သီဟသူသည် မှူးတော်မတ်တော် ရဲမက်ဗိုလ်ပါအပေါင်းတို့ကို သစ္စာချည်း တိုက်၍ တစိတ်တဝမ်းတည်း ဖြစ်ကြပြီးသော် အလုံးအရင်းများနှင့် နောင်တော်ဥဇနာ ရှိရာ ပုသိမ်မြို့သို့ ရေအား ကြည်းအား ချီသည်။ နောင်တော် ဥဇနာ အသည်းအသန် မကျန်းမာ၍ အသက်လှုပ်လှုပ်သာ ရှိသည်ကို နုပ်နုပ်စဉ်း၍ သတ်သည်။ ထိုအကြောင်းကို ညီတော် ဒလစား ကျော်စွာနှင့် ပဲခူးစား ပေမွန်တို့ ကြားသော် ကျုံးမြောင်းပြင်၍ ကြံ့ကြံ့ခံကြသည်။ ဒလကိုတိုက်ရာ မရချေ။ ပဲခူးကို လုပ်ကြံသည့်အခါ ပဲခူးစား မခြေမင် ပြောသည်နှင့် သီဟသူသည် ပေမွန်ကို လေးနှင့် ပစ်ရန် လေးကို ငင်ရာ အငင်လွန်သောကြောင့် မိမိမြှားပင် မိမိကို သင့်၍ အနိစ္စရောက်လေသည်။ မှူးမတ်တို့လည်း သီဟသူကို သင်္ဂြိုဟ်၍ သင်းချိုင်းရာတွင် စေတီတည်၏။ သီဟသူမင်း လွန်သော် ဒလကျော်စွာ နန်းတက်သည်။(ကျော်စွာမင်းများ — ရှု။ )

**သီဟသူ၊ တစီးရှင် ( မြန်မာ ၆၇၄–၆၈၄)။** ။တစီးရှင် သီဟသူသည် ပင်းယမြို့ကို စတင်တည်ထောင်သော မင်းဖြစ်သည်။(ပင်းယမြို့ — လည်းရှု။) ဘိန္နကမျိုး(ပြော့ရှမ်း) သိင်္ခဗိုလ်၏ သားသုံးပါးအနက် အငယ်ဆုံးသား ဖြစ်သည်။ ပုဂံမင်း နရသီဟပတေ့လက်ထက်နှင့် သားတော် ကျော်စွာမင်းတို့ လက်ထက် ခန့်ထားတော်မူသမျှ ကုန်တွင်အောင် ထမ်းဖန်များလတ်သော် အားရတော်မူ၍ ပင်လယ်မြို့ကို စားရန်ပေးသနားခြင်းခံရသည်။(ပင်လယ်မြို့—လည်းရှု။)

သီဟသူသည် နောင်တော်ကြီးနှစ်ပါးနှင့် အပြိုင် မင်းပြုတော်မူပြီးနောက် ငါးနှစ်မြောက်သောအခါ နောင်တော် လတ် မင်္ဂရာမင်း ရာဇသင်္ကြန် အနိစ္စရောက်သည်။ ၁၂ နှစ်ရှိလျှင် နောင်တော်ကြီး မြင်စိုင်း အသင်္ခယာအား သီဟသူ ဆေးဖြင့် အန္တရာယ်ပြု၍ အနိစ္စရောက်သည်။ အသင်္ခယာ အနိစ္စမရောက်မီ ၆၇၁ ခုနှစ်ကပင် သီဟသူသည် ပင်လယ်တွင် မင်းပြုစဉ် မြို့တည်အံ့ဟု မြို့ရာရှာသည်။ရှေးဦးစွာ အဝ

မြို့ကို တည်ရာ မအောင်မြင်ချေ။ ထို့ကြောင့် ပေါ်ပေါက်လာသော တပေါင်အလိုကို ကောက်ယူ၍ ၆၇၄ ခုနှစ်တွင် ပင်းယမြို့ နေရာ၌ မြို့တည်ရာ အောင်မြင်သည်။ မိဖုရားဖွားစောအား ချီပင့်၍မိဖုရားအစီအရင်ဖြင့် နန်းဖွင့်မင်္ဂလာ၊ ထီးဆောင်းမင်္ဂလာ၊ ဘိသိက်မင်္ဂလာတို့ကိုပြုကာ သီရိ တြိဘဝနာ ဒိတျာ ပဝရ သီဟသုရ ဓမ္မရာဇာ ဘွဲ့ကို ခံတော်မူသည်။ (စော၊ မိဖုရား — ရှု။) တရုပ်ပြေးမင်း၏သမီးတော်၊ နန်းကျကျော်စွာ၏ မိဖုရား မင်းစောဦး ပဋိသန္ဓေ သုံးလနှင့် ရှိသည်ကိုယူ၍ ဘွားစောအမည်နှင့် မိဖုရားမြှောက်သည်။ နန်းကျကျော်စွာနှင့်ပါသော သားတော် ဥဇနာအား အိမ်ရှေ့နန်းလျာ ထားတော်မူသည်။

ပင်းယမြို့ကို တည်၍ နှစ်နှစ်ရှိသောအခါ စမုန်မြစ်တွင် ဆင်ဖြူမ အသေ တစီး မျောလာသည်ကို မင်းချင်းတို့ မြင်၍ လျှောက်လေသည်။ သီဟသူလည်း ပညာရှိတို့နှင့် တိုင်ပင်၍ မျောလာသော ဆင်ဖြူကောင်ကို ဆယ်၍ ညှပ်လုပ်ပြီးလျှင် စက်ဖြင့် ထူမကာ ရတနာက တင်ပြီးနောက် စီးတော်မူသည်။ ထိုနောက် တစီးရှင် သီဟသူ ဟူသော ဘွဲ့ကို ခံယူသည်။

တစီးရှင် သီဟသူ နိုင်ငံတော်ကား သာယာဝတီ၊ ပြည်၊ တောင်ငူ၊ တောင်တွင်း၊ ရမည်းသင်း၊ ဝတီး၊ ယင်းတော်၊ လှိုင်းတက်၊ ညောင်ရမ်း၊ ပင်းတလဲ၊ ပြင်စည်၊ ပင်လယ်၊ ကျောက်ပန်းတောင်း၊ ပဋ္ဌနဂို၊ မင်းတုန်း၊ တိုင်တား၊ မင်းတမ်း၊ ကညင်မြောင်း၊ မြေထဲ၊ သရက်၊ စကု၊ စလင်း၊ ဖေါင်းလင်း၊ လယ်ကိုင်း၊ စလေ၊ ကူးခန်းငယ်၊ ကူးခန်းကြီး၊ ရွှာသာ၊ ပုဂံ၊ တလုပ်၊ ဗန့်ကျီ ဆယ်တိုက်၊ ယောထီးလင်း၊ လောင်းရှည်၊ မြင်စိုင်း၊ မက္ခရာတို့ဖြစ်သည်။

တစီးရှင်သီဟသူကား ရတနာသုံးပါးကိုလည်း ရိုသေတော်မူသည်။ ရဟန္တာထွေး ရှင်ဒိဗ္ဗစက်ကိုလည်း ဆရာ ပြုတော်မူ၏။ နန်းတော်တွင် ဆွမ်းမပြတ် လုပ်ကျွေးတော်မူသည်။ ကျမ်းဂန်တတ်တော်မူသော ပုထုဇဉ်ရဟန်းတို့အားလည်း ဆရာပြုတော်မူ၍ ပစ္စည်းလေးပါးမပြတ် ထောက်ပံ့တော်မူသည်။

အနော်ရထာစော လက်ထက်က ကွမ်းခွက်တော်တွင် ဌာပနာ၍ မင်းစဉ် ကိုးကွယ်တော်မူသော သရီရဓာတ်တော် ခုနစ်ဆူအနက် ငါးဆူသော မွေတော်တို့ကိုလည်း တစီးရှင် သီဟသူမင်းကြီးသည် ပင်းယ ရွှေစည်းခုံ၌ ဌာပနာတော်မူသည်။ ဘုရားတည်သည့်ကာလ ယိုးဒယားမင်း၊ ရခိုင်မင်း၊ လင်းဇင်းမင်းတို့ လာရောက်ကြောင်း ရွှေဘုံနိဒါန်းတွင် ဆိုသည်။ ကျန်သည့် ဓာတ်တော်နှစ်ဆူကို ပန်းထိမ်စေနိုင်သင် လက်တွင်ပါ၍ စစ်ကိုင်း ပုညရှင်စေတီ၌ ပုညအမတ် ဌာပနာသည်ဟု သမိုင်းစာဟောင်းတို့၌ ဆိုသည်။

သက္ကရာဇ် ၆၇၄ ခုနှစ် အိမ်နိမ့် ၃၆ နှစ် စည်းစိမ်တော် ၂၄ နှစ် သက်တော် ၆၀ တွင် တစီးရှင် သီဟသူမင်းကြီး နတ်ရွာစံသည်။ ဤမင်းလက်ထက် ကာချင်းအရေးအသား စတင်ပေါ်ပေါက်သည် ဟု ယူဆရသည်။ (ကာချင်း—လည်းရှု။)

**သီဟသူ** (မြန်မာ ၇၁၂–၇၂၁)။ ။ဤမင်းကို လေးစီးရှင်ကျော်စွာဟူသော အမည်ဖြင့် ရာဇဝင်တွင် အသိများသည်။ (ကျော်စွာမင်း — ရှု။)

**သီဟသူ၊ ဆင်ဖြူရှင်** (မြန်မာ ၇၈၃–၇၈၇)။ ။အင်းဝမင်း ၁၉ ဆက်တွင် ဆင်ဖြူရှင် သီဟသူသည် ငါးဆက်မြောက်မင်း ဖြစ်သည်။ အင်းဝ ပဌမ မင်းခေါင်ဘုရင်နှင့် မိဖုရားရှင်မိနောက်တို့မှ သက္ကရာဇ် ၇၅၆ ခုနှစ်တွင် ဖွားမြင်သော ဒုတိယသားတော် ဖြစ်သည်။ နောင်တော်မှာ မင်းရဲကျော်စွာ ဖြစ်သည်။ (မင်းရဲကျော်စွာ—ရှု။) နောင်တော် ကံကုန်လျှင် သီဟသူသည် ၇၇၉ ခုနှစ်တွင် အိမ်ရှေ့အရာ ရတော်မူသည်။ ခမည်းတော် နတ်ရွာစံလွန်တော်မူပြီးနောက် ၇၈၃ ခုနှစ်တွင် သီဟသူရမဟာဓမ္မရာဇာ ဟူသော တံဆိပ်ကို ခံတော်မူ၍ နန်းတက်သည်။ မင်းဖြစ်တော်မူလျှင် အထိန်းတော် မြေတူးစား ဥတ္တမ သီရိ ဇေယျသူရ နော်ရထာက မူးမြစ်တွင် မျော၍ရသည့် ဆင်ဖြူ လေးတောင်ပြည့် ဆက်လာသည် တစီး၊ ပြည်စား စောရွှေခက်က ရ၍ ဆက်သည် တစီးတို့ကြောင့် ဆင်ဖြူရှင် သီဟသူ ဟုတွင်သည်။ ငယ်စဉ်က ပြည်မြို့ကို စားရသောကြောင့် ပြည်စားသီဟသူ ဟုလည်း ခေါ်ကြသည်။

ရာဇာဓိရာဇ်နှင့် မင်းကြီးစွာစော်ကဲတို့ လက်ထက်မှ စ၍ အထက် အောက် မြန်မာနိုင်ငံ အနှစ်လေးဆယ် စစ်ပွဲသည် သီဟသူလက်ထက်တိုင် မပြီးဆုံးသေးချေ။ သီဟသူသည် ဒလ၊ ဒဂုန်စသော မွန်တို့ပြည်သို့ အလုံးအရင်းနှင့် ချီ၍ ဆက်လက်လုပ်ကြံသည်။ မွန်မင်း ဗညားဓမ္မရာဇာအားလည်း ညီတော် ဗညားရံ ဒဂုန်မှနေ၍၎င်း၊ ညီတော် ဗညားကျန်း မုတ္တမမှ နေ၍၎င်း ခြားနားလျက် ရှိချိန်ဖြစ်သဖြင့် မွန်တို့ ဝါးအစည်းပြေသကဲ့သို့ ဖြစ်နေချိန်ဖြစ်ရာ၊ နောက်ဆုံး ဒဂုန်စား ဗညားရံသည် သီဟသူအား ခန့်ညားသည် ဖြစ်၍ နှမတော် ရှင်စောပုကို ဆက်သည်။ (ရှင်စောပု—ရှု။) ရှင်စောပုအား သီရိတြိဘဝနာဒိတျာ ပဝရ အတုလ အဂ္ဂ မဓုရာဇာဓိရာဇ မဟာဒေဝီဟူသောဘွဲ့နှင့် ဘိသိက်ခံစေတော်မူ၍ မိဖုရားကြီးတို့ အဆောင်အယောင် ပေးတော်မူသည်။ ဆင်ဖြူရှင် သီဟသူတွင် မိဖုရား ရှင်စောပု အပြင် မင်းရဲကျော်စွာ၏ မိဖုရား စောမင်းလှကို မိဖုရားမြှောက်ထားသည်တပါး၊ ခမည်းတော် မိဖုရား ရှင်ဘိုမယ်ကို မိဖုရား မြှောက်ထားသည်တပါး ပေါင်း မိဖုရားနှစ်ပါးရှိသေးသည်။ (ဘိုမယ်၊ရှင် — ရှု။) ရှင်စောပု မရောက်မီ မိဖုရား ရှင်ဘိုမယ်အား မြှောက်စားလွန်းသဖြင့် မိဖုရား စောမင်းလှ မခံလိုသဖြင့် နန်းတွင် မနေ၊ ရွှေစေတီ အနောက်ဖက်၌ တန်ဆောင်းကြီး ဆောက်၍ နေတော်မူ

သဖြင့်စောမင်းလှသည် တန်ဆောင်းရှင်ဟု တွင်သည်။တဖန် ရှင်စောပု ရောက်လာသောအခါ အပြင်အလျာ အရောင်အဆင်း ကောင်းမြတ်လှသောကြောင့် အလွန်လေးမြတ်တော်မူသည်ကို မိဖုရား ရှင်ဘို့မယ် နှလုံးနာတော်မူသဖြင့် အုန်းပေါင် လယ်သံဘွားအား သီဟသူ အမေ့အလျော့နေခိုက်လုပ်ကြံ၍အင်းဝနန်းတက်ရန်စေသည်။သီဟသူသည် အောင်ပင်လယ် အရပ်၌ လယ်ချောင်း လုပ်၍ ကိုယ်လုပ်မောင်းမများနှင့် ပျော်ပါး၍သာ နေသည့်အခိုက် အုန်းပေါင်လယ်သံဘွားက ဆင်နှင့်တိုက်၊ မြှားနှင့်ပစ်ရာ မြှားသင့်၍ သက္ကရာဇ် ၇၈၇ ခုနှစ် တော်သလင်းလတွင် အိမ်နိမ့် ၂၇ နှစ်၊ စည်းစိမ် လေးနှစ်၊ သက်တော် ၃၁ နှစ် နတ်ရွာစံသည်။

ဆင်ဖြူရှင် သီဟသူကား အရောင်အဆင်းလှ၏။ နှလုံးတော် ကောင်းမွန်သည်။

ပြုတော်မူသော ကောင်းမှုတော်ကား တဘက်ဆွဲအရပ် စည်းခုံနှင့်ကျောင်းတော်ကို တည်တော်မူ၍ ဝတ္တကံ မိုးမြေ လှူတော်မူသည်။

**သီဟသူ၊ ပြည်စုန်မင်း (မြန်မာ ၇၃၀–၇၄၂)။** ။အင်းဝမင်း ၁၉ ဆက်တွင် ပြည်စုန်မင်း သီဟသူကား ၁၁ ဆက်မြောက်မင်းဖြစ်သည်။ မိုးညှင်းမင်းတရား မြေး၊ နရပတိမင်း၏ သားတော် ဖြစ်သည်။ ခမည်းတော်လက်ထက် အိမ်ရှေ့စံရသည်။

၇၃၀ ပြည့်နှစ်တွင် ခမည်းတော် နရပတိမင်းကြီးသည် သီဟသူ၏ သားတော် သတိုးကျော် လုပ်ကြံသည့် အနာနှင့် နတ်ရွာစံသည်တွင် သီဟသူ နန်းတက်သည်။ ဘုရင် မဟာ သီဟသူရ ဟူသောဘွဲ့ကိုလည်း ခံယူသည်။ မိဖုရားကား အမိတ္တာ သီရိ မဟာ ဓမ္မဒေဝီ ဟူသောအမည်နှင့် အဘိသိက်ခံသည်။ သားတော်အကြီး နော်ရထာကို မဟာသီဟသူရ ဟူသော ဘွဲ့နှင့် အိမ်ရှေ့ နှင်းတော်မူသည်။ သားတော်လတ် သတိုးကျော်ကို သတိုးဓမ္မရာဇာ ဟူသော ဘွဲ့ဖြင့် စကု၊ စလင်း၊ဖောင်းလင်း၊လယ်ကိုင်း၊မြို့သစ်၊တိုင်တား၊ မင်းတုန်း၊ သရက်မြေထဲ၊ ကညင်မြောင် မြို့တို့ကိုလည်း ပေးတော်မူသည်။ သားတော် အငယ်ကို သီရိဓမ္မာသောက ဟူသော ဘွဲ့ဖြင့် မြေတူးမြို့ကိုလည်းကံကျွေးပေးတော်မူသည်။နောက် နော်ရထာ အမည်နှင့် ရမည်းသင်း၊ ဝတီး၊ ယင်းတော်၊ လှိုင်းတက်၊ ညောင်ရမ်း၊ ပေါက်မြိုင် မြို့များကိုလည်း ပေးတော်မူသည်။ သမီးတော် ဘိုးတော်ရှင်မယ်ကို မိုးညှင်းမင်းတရားတူတော် မြောက်ဖက်နော်ရထာနှင့် စုံဖက်တော်မူ၍ မြေတူးနှင့်ပေါက်သစ်ကို ပေးတော်မူသည်။ မင်းတရားကြီးတွင် ဤ သားတော် သမီးတော်များအပြင် သမီးလတ် ဘိုးတော်ရှင်ဘွား၊ သမီးအငယ် နတ်ရှင် နှမတော် တို့လည်း ရှိသေးသည်။

သီဟသူမင်း နန်းတက်သောအခါ တောင်ငူစားသည် မခန့်မညားနေ၍ ဆက်မြဲကပ်မြဲကို မဆက်ကပ်ပဲနေရာ သီဟသူ အမျက်တော်ရှိ၍ ၇၃၂ ခုနှစ်တွင် သားတော် အိမ်ရှေ့မင်း၊ သားတော် သတိုးဓမ္မရာဇာတို့ကို တောင်ငူသို့ အလုံးအရင်းနှင့် ချီစေသည်။ တောင်ငူစား မခံနိုင်၍ အညှံ့ခံရလေသည်။

မြေးတော် သတိုးကျော် လုပ်ကြံ၍ ဘိုးတော်နရပတိမင်း နတ်ရွာစံရသဖြင့် သတိုးကျော်နှင့် ခမည်းတော် သီဟသူတို့အပေါ် မယ်တော် အတုလသီရိမဟာရာဇာဒေဝီနှင့်တကွ ညီတော်ပြည်မင်း၊သာယာဝတီမင်း၊ ဦးရီးတော်များက စိတ်တော်ခု၍ မချေမငံ ရိုင်းပြကြသည်ကို သိသဖြင့် သီဟသူမင်းကြီးသည် ၇၃၄ ခုနှစ်တွင် ရေအားကြည်းအား အများစီရင်တော်မူ၍ မိဖုရားနှင့်တကွ ပြည်သို့ချီတော်မူကာ သာယာချောင်သော စကားဖြင့် သိမ်းမြန်းပိုက်ထုပ်တော်မူသည်။ ဖိုးဦးတောင်၌ သစ္စာတော်ပေး၍ စားမြဲ ကျေးရွာစည်းစိမ်ကို မရုတ်မချ စားစေသည်။ ယင်းသို့ ပြည်မြို့သို့ စုန်၍ ဆွေတော်မျိုးတော်များကို သိမ်းမြန်း ပိုက်ထုပ်ရသောကြောင့် ပြည့်စုန်သီဟသူ ဟုတွင်သည်။

သက္ကရာဇ် ၇၃၆ ခုနှစ်တွင် ညောင်ရွှေ၊ နောင်မွန်၊ ရပ်စောက်စားတို့ မကျိုးမနွံပြုသဖြင့် အုန်းပေါင်စော်ဘွားစစ်ကူတောင်းသဖြင့် ဆင်မြင်း အလုံးအရင်းနှင့် ပို့ရာ မြို့လုံးပျက်၍ စော်ဘွားနှင့်တကွ သားမယားများကို သုံ့ပန်းအဖြစ် ဖမ်းခဲ့နိုင်သည်။ မြို့စားသုံးဦးကို သစ္စာပေး၍ အုန်းပေါင်စော်ဘွားနှင့် တချက်တပေါင်းတည်း ဖြစ်စေသည်။

သက္ကရာဇ် ၇၃၇ ခုနှစ်တွင်မွန်ကျေးကောလိယတွင်သော သစ်တိန်ညင်သို့ တောင်ငူ စည်သူကျော်ထင်အား ဗိုလ်မှူးခန့်၍ အလုံးအရင်းနှင့် လုပ်ကြံစေရာ မွန်တို့ပျက်၍ ကောလိယမြို့ကို သိမ်းပိုက်မိသည်။

သက္ကရာဇ် ၇၃၈ ခုနှစ်တွင် မိုးညှင်းနှင့် မိုးကောင်းစော်ဘွားတို့ စစ်ဖြစ်ကြရာ နှစ်မြို့စလုံးက စစ်ကူတောင်းသဖြင့် ကိုယ်တော်တိုင်ရေအားကြည်းအားအလုံးအရင်းနှင့် ချီတော်မူသည်။ မိုးညှင်းသို့ရောက်တော်မူလျှင် မိုးညှင်းနှင့် မိုးကောင်းစော်ဘွားတို့ မခံဝံ့သဖြင့် လက်ဆောင်လက်နက်အများနှင့် ဝင်လှာသည်။ မိုးညှင်းစော်ဘွားကို ယူတော်မူခဲ့၍ တကောင်းမြို့ကိုပေးကာ မိုးညှင်းမြို့ကိုမူ မိုးကောင်းစော်ဘွားကြီးအား ပေးတော်မူသည်။

တခါသော် မွန်သူရဲကောင်း သမိန်ဗရမ်း (မင်းညီတိုး) သည် ခန္တီးမြို့ကျေးစပ်တိုင်အောင် ချီတက်ကာ မြေခြားသံတိုင်စိုက်၍ ပြန်အလာတွင် သီဟသူလည်း ရမည်းသင်းမှ ဆီးကြိုတိုက်စေရာ သမိန်ဗရမ်းကို အရှင်ရလေသည်။ သမိန်ဗရမ်းကိုရလျှင် သီဟသူသည် မရှုတ်မချ အဝတ်အစား ပေးတော်မူ၍ မြဲစွဲစေ၏။

တရုပ်တို့လည်း နယ်ခြားသံတိုင်စိုက်ကြောင်း ကြား

သဖြင့် လာရောက်နတ်ပစ်သည့်ပြင် မြန်မာတို့ စိုက်သည့်ထင်မှား၍ ပဏ္ဏာတောင်းလေရာ သီဟသူကပြင်းသော်တရုပ်တို့က သူ့ရဲကောင်းမြင်းတစီး စီးချင်းတိုက်ရန်ဆိုလာသည်။ သီဟသူလည်း သမိန်ဗရမ်းကို စီးချင်းတိုက်ရန် ရွေးချယ်စေလွှတ်သည်။စီးချင်းတိုက်ရာတွင် တရုပ်သူရဲကောင်းစလုံးကျော်ခေါင်ကို သမိန်ဗရမ်းသည် လှံနှင့်ထိုး၍အကျဉ်ခေါင်းဖြတ်ယူခဲ့နိုင်သည်။ဘုရင်သီဟသူလည်း အားရတော်မူသဖြင့် သမိန်ဗရမ်းအား သူအလိုရှိသည့်အတိုင်း ဟံသာဝတီနေပြည်တော်သို့ အဆောင်အယောင်အခမ်းအနားနှင့်ပြန်ပို့တော်မူသည်။ မွန်မင်း ဓမ္မစေတီလည်း အားရတော်မူ၍ ဘုရင်သီဟသူအား အထူးထူးသော ထည်မျိုးအုပ်မျိုးများစွာပေးသည်။ (သမိန်ဗရမ်း—လည်းရှု။)

သက္ကရာဇ် ၈၄၂ ခုနှစ်တွင် အိမ်နိမ့် ၄၂ နှစ်၊ စည်းစိမ် ၁၂ နှစ်၊ သက်တော် ၅၄ နှစ်တွင် သီဟသူဘုရင် နတ်ရွာစံသည်။ နတ်ရွာမစံမီ သားတော်များ တဆင့်ကိုတဆင့် ကြီးစဉ်ငယ်လိုက် ရှိသေရန်၊ စည်းစည်းလုံးလုံးနေထိုင်ရန် ဆုံးမတော်မူခဲ့သည်။သီဟသူဘုရင်၏ကောင်းမှုတော်တို့ကား သင်ပန်းအရပ်၌ ပဋ္ဌမာလိန္ဒ ရတနာမြစည်းခုံနှင့် ရွှေကျောင်းဆောင်၊ ရွှေသိမ်တော်၊ ပုဂံတွင် ဇေတဝန်ကျောင်းတော်၊ ရွှေစည်းခုံအောက် ရန်အောင်မြင် ရွှေကျောင်းတော်၊ ရတနာစေတီတွင်းဝယ် ရွှေကျောင်းတော်၊ ထုပါရုံတွင်းဝယ် ရွှေကျောင်းတော်၊ ဖွားတော်မူသော စစ်ကိုင်းမြို့တွင်းဝယ် ရွှေကျောင်းတော်၊ ချောင်းပေါက်အရပ်၌ ရတနာမဥ္ဇူ ဘုရားနှင့် ရွှေကျောင်းတော်တို့ ဖြစ်သည်။

ဤမင်းလက်ထက် စာပေအရေးအသားသစ်များ ထွန်းကားသည်။ ချေါင်းနှင့် မော်ကွန်းဟူသော ကဗျာဆန်းများ ပေါ်ပေါက်လေသည်။ စာဆိုတော်ကြီးရှင်သူရဲ၏သခင်ထွေးချောင်း၊ ရှင်ထွေးညို၏ ပြည်စုန်မော်ကွန်းတို့သည် သီဟသူဘုရင်လက်ထက် ရေးသား စပ်ဆိုသော စာကောင်း ပေမွန်များ ဖြစ်ကြသည်။

# အရွယ်သေးသော်လည်း အရေးကြွယ်သည့်ကျွန်းနိုင်ငံ

ဗုဒ္ဓစာပေ ကျမ်းဂန်တို့၌ လင်္ကာဒီပဟု ထင်ရှားခဲ့သည်။ ဂေါတမ ဘုရားရှင် ပရိနိဗ္ဗာန် စံလွန်တော်မူပြီးနောက်တွင် ဗုဒ္ဓအယူဝါဒ နေလို လလို ထွန်းပခဲ့သော ကျွန်း၊ ယွန်းဆွမ်းအုပ်၏ ပုံသဏ္ဌာန်ကဲ့သို့ မြေမျက်နှာပြင်ရှိသည်။ မဟာဝံသ၊ ဒီပဝံသခေါ် ရှေးမှတ်တမ်းများဖြင့် ကျွန်းနိုင်ငံ၏ သမိုင်းကို ထိန်းသိမ်းလာခဲ့သည်။ သီဟိုဠ်ကျွန်းနှင့် ကျေးကုလားများ၊ ပေါ်တူဂီနှင့် ဒတ်ချတို့ နယ်ချဲ့ခဲ့ပုံ၊ ဗြိတိသျှ ဓနသဟာယအဖွဲ့ဝင်အဖြစ် အရေးပါပုံတို့ကို တင်ပြထားသည်။

**သီဟိုဠ်ကျွန်း။** ။ပြာလဲ့လဲ့ ပင်လယ်ရေပြင်ဖြင့် ဝိုင်းရံလျက် ရှိ၍ စိမ်းစိုသာယာလှပသော ရှုခင်းတို့ဖြင့် တင့်တယ်ရှုမောဖွယ်ရာဖြစ်သော သီဟိုဠ်ကျွန်းသည် မြန်မာနိုင်ငံ၏ နိုင်ငံနီးချင်းလည်း ဖြစ်သည်။ ဗုဒ္ဓဝင်၊ မဟာဝင် စသည့် မြန်မာ့စာပေ ကျမ်းဂန်ကြီးများ၌ ထင်ရှား ပါရှိသော လင်္ကာဒီပ ခေါ် သီဟိုဠ်ကျွန်းအကြောင်းကို ဗုဒ္ဓ အယူဝါဒီ မြန်မာလူမျိုးများ အလွန် ကြားဘူးနားဝ ရှိနေကြလေသည်။

ထိုကျွန်းသည် ဗုဒ္ဓဝါဒီတို့သာမက အခြား အယူဝါဒီ အမျိုးမျိုး၏ လေးစား မြတ်နိုးခြင်းကို ခံယူရရှိသောကျွန်းဖြစ်သည်။ ဂေါတမဘုရား သက်တော်ထင်ရှား ရှိစဉ်အခါက လူနေကျွန်း မဟုတ်သေးသော်လည်း လင်္ကာဒီပ ကျွန်းတွင် နောင်အခါ ဗုဒ္ဓ အယူဝါဒသည် ကောင်းစွာ ခိုင်ကျည်တည်တံ့လိမ့်မည်ဟု ဗျာဒိတ်တော် ချမှတ်ကာ ဘုရားရှင်ကိုယ်တော်တိုင် သုံးကြိမ်သုံးခါ ကြွရောက်တော်မူခဲ့ဘူးသည်ဟူ၍ ဗုဒ္ဓဝါဒီတို့သည် ထိုကျွန်းအပေါ် လေးစားမြတ်နိုးမှု ရှိကြလေသည်။

ဟိန္ဒူ အယူဝါဒီတို့ကမူ ယင်းတို့၏ နတ်ဘုရားဖြစ်သော ရာမမင်းသား၏ ကြင်ယာတော် သီတာဒေဝီကို လင်္ကာဒီပ ကျွန်းရှင် ရာဝဏ(ဒသဂီရိ)ခေါ် နတ်ဘီလူးက အိန္ဒိယနိုင်ငံမှ ခိုးယူ ပြေးလာရာ၊ ရာမမင်းသား လိုက်လာ၍ ရာဝဏအား အောင်နိုင်ပြီးလျှင် ရာမမင်း၏ တန်ခိုးအာဏာစက် ဖြန့်ကျက်ခဲ့ရာ ဌာနအဖြစ် အမြတ်တနိုး ရှိကြသည်။ အိန္ဒိယ ဖက်ကမ်းရှိ ဓနုရှကိုဒီရွာမှ သီဟိုဠ်ကျွန်းသို့ ပင်လယ်ရေလက်ကြားကို မီးရထားဖြင့် ဖြတ်ကူးရသည့် ကျောက်တန်း တန်တားသည် ရာမမင်းသား သီဟိုဠ်ကျွန်းသို့ ကူးနိုင်ရန် ဟနုမာန်မျောက်မင်းက ကျောက်တန်းဆည်၍ ဆောက်ပေးခဲ့သည့် တန်တား ဖြစ်သည်ဟုလည်း ယူဆကြသဖြင့် ယင်းကို ဟနုမာန် ကျောက်တန်းဟု ခေါ်ကြလေသည်။

ထိုကျောက်တန်းကို အာဒမ် ကျောက်တန်း ဟုလည်း ခေါ်ကြသည်။ ခရစ်ယန် ဝါဒီတို့ အလိုမှာ အာဒမ်နှင့် အေးဝတို့ကို အေဒင် ဥယျာဉ်မှ နှင်ထုတ်လိုက်သော အခါ သီဟိုဠ်ကျွန်းသို့ လာရောက် နေထိုင်ခဲ့ဘူးသည် ဟူ၏။ မွတ်စလင် တို့ကလည်း ထိုနည်းတူ ယူဆသည့်ပြင်၊ ယင်းတို့၏ တမန်တော် မိုဟမ္မဒ်သည်လည်း သီဟိုဠ်ကျွန်းတွင် စခန်းတထောက်နားခဲ့ဘူးသည် ဟူ၍ ယူဆကြလေသည်။

သီဟိုဠ်ကျွန်း၏ အမည်သည် အမျိုးမျိုး ဖြစ်သည်။ ဗုဒ္ဓဝင်၊ မဟာဝင်တို့ အလိုအရမူ ထိုကျွန်းသည် ကမ္ဘာအဆက်ဆက်ကပင် တည်ရှိခဲ့၍ ကကုသန် ဘုရားရှင်၏ လက်ထက်တွင် ဩဇာဒီပ၊ကောဏဂုံ ဘုရားရှင်၏လက်ထက်

တွင် ဝရဒီပ၊ ကဿပ ဘုရားရှင်၏ လက်ထက်တွင် မဏ္ဍဒီပ၊ ဂေါတမ ဘုရားရှင်၏ လက်ထက်တွင် လင်္ကာဒီပဟု ခေါ်တွင်သည်ဟု ဆိုလေသည်။

သီဟိုဠ်ကျွန်းကို လူနေ တိုင်းပြည်ဖြစ်အောင် စတင် တည်ထောင်ခဲ့သူဟု ဆိုသော ဝိဇယမင်းသားနှင့် အပေါင်းပါတို့ ထိုကျွန်းသို့ ဆိုက်ရောက်သည့်အခါ ခြေကုန်လက်ပန်း ကျလှသဖြင့် ခြေမခိုင် ခွေယိုင်နေကြသောကြောင့် ကျွန်းပေါ် ရောက်အောင် လက်ဝါးဖြင့် ထောက်တက်ကြရာ မြေနီမှုန့် စွဲကပ်သည်ကို အကြောင်းပြု၍ တမ္ဗပဏ္ဏိ ဒီပဟု ခေါ်ဆိုကြပြန်သည်။ ထို့ပြင် မြေပြင် ပြောင်ချောနေ၍ ခြေလှမ်းမခိုင် ယိမ်းယိုင်ကြရသောကြောင့် သခ်လဒီပ ဟု ခေါ်ဆိုကြပြန်ရာ မြန်မာတို့ အခေါ်အဝေါ် အသုံးအနှုန်းအားဖြင့် သိန်းခိုကျွန်း၊ သို့မဟုတ် သိင်္ဃိုကျွန်း ဟူ၍လည်း အမည်တွင်ပြန်လေသည်။

သီဟိုဠ်ကျွန်းဟု ခေါ်တွင်ခြင်းမှာ ဝိဇယမင်းသားသည် သီဟဗာဟု မင်း၏ သားတော်ဖြစ်၍ သီဟဠ အမျိုး အနွယ် ဖြစ်ပေရာ၊ သီဟဠမျိုးက စတင် တည်ထောင်သော တိုင်းပြည် ဖြစ်သဖြင့် သီဟိုဠ်ဟု ခေါ်ဆိုခြင်း ဖြစ်သည်ဟု ဆိုကြသည်။ လင်္ကာဒီပ၊သို့မဟုတ် လင်္ကာဒီပ ဟူသည် ဗြဟ္မဏ ပုဏ္ဏားတို့၏ အခေါ်အဝေါ်ဖြစ်၍ ယခု သီဟိုဠ်သားတို့က လည်း လင်္ကာဟုပင် ခေါ်ဆိုကြသည်။ အင်္ဂလိပ်တို့က စီလုံဟု ခေါ်ဝေါ်ခြင်းမှာ ပေါ်တူဂီတို့က ဇီလုံဟု ခေါ်ဝေါ်ခြင်းမှ ဆင်းသက်လာခြင်း ဖြစ်ပေသည်။

ယင်းသို့ အမည်အမျိုးမျိုးဖြင့် ထင်ရှားခဲ့သော သီဟိုဠ်ကျွန်းသည် ကျွန်းနိုင်ငံတခု ဖြစ်သည်။ အိန္ဒိယကျွန်းဆွယ် တောင်ဖက်စွန်း၏ တောင်ဖက် အရှေ့ ခပ်ယွန်းယွန်း၌ တည်ရှိသည်။ ၅၅ မိုင်ကျယ်သော ပေါ့က ရေလက်ကြားသည် အိန္ဒိယကျွန်းဆွယ် တောင်ဖက်စွန်းနှင့် သီဟိုဠ်ကျွန်းကို ပိုင်းခြားထားသည်။ ထိုကျွန်းသည် မြောက်မှ တောင်သို့ ၂၇၁ မိုင် ရှည်လျား၍ ပြက်အကျယ်ဆုံး နေရာတွင် ၁၃၇ မိုင် ရှိသည်။ကျွန်းတခုလုံး၏ အကျယ်အဝန်းသည် ၂၄,၉၅၉ စတုရန်းမိုင် ဖြစ်လေသည်။

ကျွန်း၏ ပုံသဏ္ဌာန်သည် သစ်သေ့သီး၊ သို့မဟုတ် ဗူးသီးရှည် ပုံနှင့် ဆင်ဆင်တူကာ အောက်ကား၍ အပေါ် ရှူးလေသည်။ ကျောက်ဆောင် ကျောက်တောင် ကျောက်မြေတို့ဖြင့် ဖွဲ့စည်းထားသော ထိုကျွန်း၏ မြေမျက်နှာပြင်သည် ကုန်းပြင်မြင့်ဆန်၍ ယွန်း ဆွမ်းအုပ်ကဲ့သို့ အလယ်တွင် မို့မောက်သော တောင်ရိုး တောင်တန်းများ ရှိပြီးလျှင် ဘေးပတ်လည်ဝယ် မြေပြင်အဆင့်ဆင့် နိမ့်လျှောဆင်းသွားလေသည်။ တောင်ထွတ်များသည် ပေ ၇,၀၀၀ မှ ၈,၀၀၀ ကျော်အထိ ရှိသည်။ အမြင့်ဆုံး တောင်ထွတ်သည် ပီဒူရုတာလာဂါလ ဖြစ်၍ ၈,၂၉၁ ပေ မြင့်သည်။ ဗုဒ္ဓအယူဝါဒီ တို့က ဂေါတမ မြတ်စွာဘုရား၏ ခြေတော်ရာရှိရာ တောင် ဖြစ်သဖြင့် စေတီပါဒဟု ခေါ်ဆိုကြသော အာဒမ်တောင် ထွတ်ခေါ် သည့် တောင်ထွတ်သည် ၇,၃၆၅ ပေ အမြင့်ရှိလေသည်။ အာရပ်လူမျိုးတို့ကမူ ထို ခြေတော်ရာကို အာဒမ်၏ ခြေရာဟု ဆိုကြလေသည်။

တောင်ထူထပ်သော အပိုင်း၏ အရှေ့ဖက်၊ တောင်ဖက်နှင့် အနောက်ဖက်ပိုင်းသည် ကျဉ်းမြောင်းသော မြေနိမ့် ကမ်းမြောင်ဒေသ ဖြစ်သည်။ သို့သော် ကျွန်း၏ မြောက်ဖက်ပိုင်းရှိ ကျယ်ပြန့်သော မြေနိမ့်မြေပြန့် ဒေသသည် ကျွန်း၏ အရှေ့ဖက်နှင့် အနောက်ဖက် ကမ်းရိုးတန်းအထိ ဖြန့်ကား ထွက်လေသည်။

အလယ်ပိုင်း တောင်ကုန်းဒေသမှ မြားမြောင်လှသော မြစ်ချောင်းများသည် အရပ်ရပ်သို့ စီးဆင်းသည်။ မဟာဝေလိ ဂင်္ဂါ၊ ကလျာဏီ ဂင်္ဂါ စသော မြစ်တို့သည် ရေစီးသန်သဖြင့် ကူးသန်း သွားလာရေးနှင့် သယ်ယူပို့ဆောင်ရေး အတွက် အရာမရောက်လှပေ။

သီဟိုဠ်ကျွန်းသည် အီကွေတာနှင့် နီးကပ်နေ၍ အပူရှိန် အလွန်ပြင်းထန် သင့်သော်လည်း ရေဝန်းရံလျက် ရှိသဖြင့် မျှတသော ရာသီဥတု ရှိပေသည်။ အနောက်တောင် ရာသီလေ တိုက်ခတ်သော ဇွန်လမှ အောက်တိုဘာလအတွင်း အနောက် တောင်ဖက်ပိုင်းရှိ မြေနိမ့်ဒေသ၌ ပျမ်းမျှ မိုးရေချိန် ၇၅ လက်မ ရရှိ၍ တောင်ကုန်း ဒေသများတွင် လက်မ ၂၀၀ ကျော်သည်။ မြောက်ပိုင်း လွင်ပြင်ဒေသများနှင့် အရှေ့တောင်ဖက်စွန်းတွင် အရှေ့မြောက် ရာသီလေ တိုက်ခိုက်သည့် ကာလ(ဆောင်းရာသီ)အတွင်း မိုးရွာသွန်းသည်။ သို့သော် အများဆုံး မိုးရေချိန်သည် ၇၅ လက်မ အောက် နည်း၍ အချို့ဒေသများတွင် လက်မ ၅၀ ခန့်သာ ရရှိလေသည်။ သီဟိုဠ်ကျွန်းတွင် မိုးပါးသော ရာသီနှင့် မိုးများသော ရာသီမှတပါး ချမ်းအေးသော ဆောင်းရာသီဟု ဆိုရလောက်အောင် ရာသီဥတု ကွာခြားချက် မရှိချေ။ အပူချိန် ကွာခြားချက်သည် ဖာရင်ဟိုက် သုံးဒီဂရီ၊ လေးဒီဂရီခန့်မျှသာဖြစ်၍ အစဉ်သဖြင့် ပူအိုက်သည်ဟု ဆိုရသော်လည်း ပျမ်းမျှ အပူချိန်သည် ဖာရင်ဟိုက် ၈၄ ဒီဂရီခန့်သာ ဖြစ်သည်။မြောက်ဖက် အစွန်းဆုံးကျသော ဒေသများသည် မိုးအပါးဆုံး ဖြစ်သည့်ပြင် တနှစ်လျှင် နှစ်လခန့် မိုးပြတ် နေတတ်လေသည်။ထိုဒေသများတွင် သီးနှံအထွက်ကောင်းလိုလျှင် ဆည်မြောင်းများဖြင့် ရေသွယ် စိုက်ပျိုးခြင်းကို လုပ်ကိုင်ကြရလေသည်။

မိုး မပြတ်လှသဖြင့် သရက်၊ ပိန္နဲ၊ နာနတ် စသည်တို့ကို အစဉ်မပြတ်ရနိုင်သည်။လူဦးရေအများအစုသည် လယ်ယာလုပ်ကိုင်ကြသော်လည်း သင့်တင့်သော မြေပြင် မြေပြန့် နည်းပါးခြင်း၊ ကျောက်မြေ များပြားခြင်း၊ အချို့ အရပ်

ဒေသများတွင် မိုးလိုသလောက် မရခြင်းတို့ကြောင့် ဆန်စပါးကို နိုင်ငံတွင်း စားသုံးရန်အတွက်ပင် လုံလုံ လောက်လောက် မရရှိသဖြင့် နိုင်ငံခြား၊ အထူးသဖြင့် မြန်မာနိုင်ငံမှ တင်သွင်းရသည်။ တောင်စောင်း တောင်ခါးပန်းများ၌ လှေကားထစ် စိုက်ပျိုးခင်းများ ပြုလုပ်၍ စပါးစိုက်ပျိုးကြသည်။ ကျောက်မြေများတွင် စိုက်ပျိုးရသဖြင့် စပါးကောင်းဆန်ကောင်း မထွက်လှပဲ ဆန်နီများသာ ထွက်လေသည်။

သီဟိုဠ်ကျွန်း၏ အခြေခံ စီးပွားရေးမှာ လက်ဖက်၊ ကြက်ပေါင်စေး၊ အုန်းသီး၊ အုန်းဆံ စသည့် အုန်းထွက်ပစ္စည်းတို့ ဖြစ်ကြသည်။ အုန်းပင် အုန်းတောများသည် သီဟိုဠ်ကျွန်း၌ ကမ်းရိုးတန်းတလျှောက် နေရာဒေသ မရွေး များပြားလှစွာ ပေါက်ရောက်သည်။ လက်ဖက်ခြံ၊ ရာဗာ (ကြက်ပေါင်စေး)ခြံ၊ ကိုကိုးခြံ၊ ကော်ဖီခြံများကို မြေပြင်မှ အမြင့်ပေ ၂,၀၀၀ ကျော်သော တောင်စောင်း ဆင်ခြေလျှောနှင့် ကုန်းမြင့်ပိုင်းတို့တွင် တွေ့ရသည်။ သီဟိုဠ်ကျွန်း၏ ထွက်ကုန် ၉၅ ရာခိုင်နှုန်းသည် ဆိုခဲ့သော လက်ဖက်ခြောက်၊ ရာဗာနှင့် အုန်းထွက်ပစ္စည်းများ ဖြစ်ကြ၍ သစ်ကြံပိုး၊ ကိုကိုး၊ ကော်ဖီ၊ စပါးလင်မွှေးနှင့် ဆေးရွက်တို့ကိုလည်း အတော်အသင့်များပြားစွာ စိုက်ပျိုးလုပ်ကိုင်ကြလေသည်။

သီဟိုဠ်ကျွန်းသည် အီကွေတာနှင့် နီးစပ်၍ မိုးများပြားသော နေရာဒေသများ ရှိသော်လည်း ကျောက်မြေ များပြားသဖြင့် သစ်တော ဝါးတောများသည် ကျွန်း၏ ဧရိယာ ၁၇ ရာခိုင်နှုန်းမျှသာ ရှိသည်။ အဖိုးတန် သစ်ဟူ၍ ပျဉ်းကတိုး၊ သင်းကနက်၊ မဟော်ဂနီတို့သာ ထွက်သည်။ သစ်ကြီးဝါးကြီး ရှားသည်။ ထိုကြောင့် ပိန္နဲသား၊ မယ်ဇလီသားတို့ကို အသုံးများကြသည်။ ပိန္နဲသားသာမက အသီးကိုလည်း ဆန်အစား ခုစားကြရ၍ သီဟိုဠ်ကျွန်းတွင် ပိန္နဲပင်များကို အရမ်းမဲ့ ခုတ်လှဲခြင်း မပြုရချေ။

ကုန်းမြင့် သစ်တောများအတွင်း တိရစ္ဆာန်အမျိုးမျိုးကို တွေ့ရသည်။ သီဟိုဠ်ကျွန်းသည် ဆင်ပေါများသော နိုင်ငံတခုလည်း ဖြစ်သည်။ မြ၊ ပတ္တမြား၊ ကြောင်၊ ဆီးကျောက်စသော ကျောက်မျက်ရတနာများဖြင့်လည်း ပေါကြွယ်ဝ၍ ဂဝံကျောက် အကောင်းစားများလည်း အများအပြား ထွက်ရှိသည်။ အချို့ တောင်များမှ ရွှေလည်းထွက်သည်။ နိုင်ငံတွင်းသုံး လုံလောက်ရုံမျှသော သံရိုင်းများလည်း တူးဖော်ရရှိသည်။ ကမ်းရိုးတန်းတလျှောက်မှ ပုလဲများကို ငုပ်ယူရရှိလေသည်။

အာရှတိုက်တွင် သီဟိုဠ်ကျွန်းသည် စာတတ်သူ ဦးရေ ရာခိုင်နှုန်း အမြင့်ဆုံး(၆၅ ရာခိုင်နှုန်း)နိုင်ငံတခု ဖြစ်သည်။ သူငယ်တန်းမှ တက္ကသိုလ် အသက်မွေးဝမ်းကြောင်း ပညာရေး အထိ အခမဲ့ ပညာရေးစံနစ် ရှိသည်။ တက္ကသိုလ်သုံးခု ရှိ၍ တနိုင်ငံလုံးတွင် စာသင်ကျောင်းပေါင်း ၆,၀၀၀ ကျော် ရှိသည်။ ဗြိတိသျှတို့ လက်ထက်မှ စ၍ အင်္ဂလိပ်စာသည် ရုံးသုံးဖြစ်ခဲ့ရာ ၁၉၅၇ ခုနှစ်တွင် သီဟိုဠ်ဘာသာကို ရုံးသုံး ပြုလုပ်သည်။ သို့သော် တမီလ်(ဓမိလ)လူမျိုးတို့က ကန့်ကွက်သဖြင့် တမီလ် ဘာသာကိုလည်း အသုံးပြုခွင့်ပေးခဲ့ရလေသည်။

လူဦးရေ ၁၁,၉၉၂,၀၀၀ ယောက်(၁၉၆၈ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်း)ရှိသည်အနက် လေးပုံ သုံးပုံသည် တောနယ်များတွင် နေထိုင်ကြ၍ စိုက်ပျိုးရေး လုပ်ကိုင်ကြသည်။ အနောက်ဖက်နှင့် တောင်ဖက်ပိုင်းသည် မြောက်ဖက်နှင့် အရှေ့ဖက် မြေနိမ့်ပိုင်းများထက် ပို၍ လူဦးရေ ထူထပ်သည်။ မြောက်ဖက် မြေနိမ့်ပိုင်းသည် ရှေးနှစ်ပေါင်း ၁,၀၀၀ ကျော်ခန့်က မင်းနေပြည်တော်များ တည်ရှိခဲ့သော ဒေသ ဖြစ်၍ လူနေမှု အဆင့်အတန်းမြင့်လျက် စည်ပင် ထွန်းကားခဲ့လေသည်။ ထိုဒေသကို ယခုအခါ ကန်ဆည်တူးမြောင်း




သီဟိုဠ်ကျွန်း တည်နေရာပြမြေပုံ

များဖြင့် စိုက်ပျိုးရေး ပြန်လည်ကောင်းမွန်အောင် ဆောင်ရွက်ကာ ပြန်၍ စည်ပင်ထွန်းကားရန် ကြိုးစားလျက် ရှိလေသည်။

လွတ်လပ်သော နိုင်ငံတခု ဖြစ်လာပြီးသည့်နောက်တွင် စက်မှုလုပ်ငန်းများလည်း တိုးတက်လာ၍ စက်ရုံ အလုပ်ရုံများ တိုးတက်များပြားလာသည်။ ယခုအခါ အောင်မြင်လျက် ရှိသော စက်မှုလုပ်ငန်းများမှာ ဖန်ထည်ကြွေထည်လုပ်ငန်း၊ သားရေ လုပ်ငန်း၊ စက္ကူ လုပ်ငန်း၊ ရာဗာလုပ်ငန်းနှင့် သုံးထပ်သားလုပ်ငန်းတို့ ဖြစ်လေသည်။

သီဟိုဠ်ကျွန်းသည် သေးငယ်လင့်ကစား ကမ္ဘာ့ အရှေ့ခြမ်းနှင့် အနောက်ခြမ်းကို ကူးသန်းသွားလာသော ပင်လယ်ကူး သင်္ဘောကြီးများ ဆိုက်ကပ် ရပ်နား၍ ရိက္ခာ ဖြည့်တင်းရန် အချက်အချာကျသော စခန်း ဖြစ်ပေသည်။ ပင်လယ်ကူးသင်္ဘောကြီးများ ဆိုက်ကပ် ရပ်နားရန်ငှင်း၊ ကုန်သွယ် စီးပွားရေးအတွက်ငှင်း အရေးပါသော သင်္ဘောဆိပ် မြို့ကြီးများမှာ ကိုလံဗို၊ ထရင်ကိုမလီ၊ ဂါလေ စသော မြို့ကြီးများ ဖြစ်ကြသည်။ ကိုလံဗိုမြို့သည် သီဟိုဠ်ကျွန်း၏ မြို့တော်လည်းဖြစ်၍ အာရှတိုက်တွင် အထင်ရှား အကျော်ကြားဆုံးသော သင်္ဘောဆိပ် မြို့ကြီးတမြို့လည်း ဖြစ်သည်။ ကုန်းဖက်ကျသော ကန္ဒီ၊ ဂျက်ဖနာ မြို့တို့သည်လည်း အရောင်းအဝယ် စည်ကားသော သီဟိုဠ်မြို့ကြီးများ ဖြစ်ကြသည်။တောင်ကုန်းဒေသရှိ ကန္ဒီမြို့သည် သီဟိုဠ်မင်းတို့၏ နောက်ဆုံး နေပြည်တော်ဖြစ်၍ ကိုလံဗိုနှင့် ၇၄ မိုင်မျှသာ ဝေးကွာလေသည်။

သီဟိုဠ်ကျွန်း၏ လူဦးရေ အများစုသည် သီဟိုဠ်လူမျိုးများ ဖြစ်ကြသည်။ ယင်းတို့သည် သိမ်မွေ့၍ အေးဆေးစွာ နေထိုင်မှုကို နှစ်သက်မြတ်နိုးကြသည်။ ပွဲလမ်းသဘင် အခါများ၌ ယင်းတို့၏ ဆင်ယင်ထုံးဖွဲ့မှုသည် ထူးထွေဆန်းပြား၍ တမျိုးတဖုံ လှပသည်။ သီဟိုဠ်ကျွန်း၏ အဓိက အယူဝါဒသည် ဗုဒ္ဓအယူဝါဒ ဖြစ်သည်။ ထိုပြင် ဟိန္ဒူ၊ ခရစ်ယန်၊ အစ္စလာမ် အယူဝါဒီဝင်တို့လည်း အတော်အသင့် များပြားလေသည်။

သီဟိုဠ်မင်းများ လက်ဆက်က ဗုဒ္ဓအယူဝါဒကို အလွန်ခြီးမြှင့်မြှောက်စားခဲ့သည်။ ဗုဒ္ဓသာသနိက အဆောက်အုံများလည်း ထိုကျွန်း၌ များပြားလှသည်။ အနိုင်နိုင်ငံမှ ဗုဒ္ဓဝါဒီတို့ အထူးသဖြင့် အထွတ်အမြက်ထား၍ မြတ်နိုးရိုသေကြသော နှစ်ဌာနမှာ ဒက္ခိဏသာခါ မဟာဗောဓိပင်နှင့် စွယ်တော်တိုက် ဖြစ်သည်။ ဒက္ခိဏသာခါ ဗောဓိပင်သည် ဂေါတမမြတ်စွာဘုရား ပွင့်တော်မူရာ မူလ ဗောဓိပင်၏ လကျ်ာတောင်ကိုင်းကို သီရိဓမ္မာ သောကမင်းကြီး၏ သမီးတော်၊ ရှင်မဟိန္ဒ၏ နှမတော် သင်္ဃမိတ္တာထေရီမ ပင့်ဆောင်လာ၍ စိုက်ပျိုးထားခဲ့ခြင်း ဖြစ်သဖြင့် နှစ်ပေါင်း ၂,၀၀၀ ကျော်ခဲ့ပေပြီ။ ကန္ဒီမြို့တွင် ရှိသည့် စွယ်တော်တိုက်တွင် ဂေါတမ မြတ်စွာဘုရား၏ လက်ဝဲ အောက်စွယ်တော်ဟု ဆိုကြသော စွယ်တော်မြတ် ကိန်းဝပ်စံပယ်လျက် ရှိသည်။ ထိုစွယ်တော်မြတ်ကို ရှင်သာရိပုတ္တရာ၏ တပည့်ရဟန္တာမြတ် တပါးထံမှ ရရှိသဖြင့် ကလိင်္ဂရာဇ် မင်းအဆက်ဆက်တို့ ကိုးကွယ်ခဲ့သည်။ ကုဟာတီမင်း လက်ဆက်တွင် တိုင်းပြည်ရေး မသာယာသဖြင့် ထိုမင်း၏ သမီးတော်နှင့် သားမက်တော်တို့သည် စွယ်တော်မြတ်ကိုပါ ပင့်ဆောင်၍ သီဟိုဠ်ကျွန်းသို့ တိမ်းရှောင်ခဲ့ကြသည်။ ထိုအခါမှစ၍ သီဟိုဠ် မင်းအဆက်ဆက်တို့သည် စွယ်တော်မြတ်ကို ကြည်ညိုမြတ်နိုးစွာ ပူဇော်ကိုးကွယ်ကြသည်။ စွယ်တော် လက်ရှိ ပုဂ္ဂိုလ်သာလျှင် သီဟိုဠ်ကျွန်းကို အစိုးရ နိုင်မည်ဟု ယုံကြည်ခဲ့ကြ၍ ထိုမင်းအဆက်ဆက်တို့သည် စွယ်တော်မြတ်ကို မိမိတို့နှင့် မကင်းကွာစေပဲ နေပြည်တော် အမျိုးမျိုး ပြောင်းရွှေ့ရာသို့ပင် ပင့်ဆောင် ကိုးကွယ်ခဲ့ကြလေသည်။

သီဟိုဠ်ကျွန်း၏ ရှေးဦးသမိုင်းသည် ဒဏ္ဍာရီ ပုံပြင်ဆန်သည်။ ဗုဒ္ဓဝင်၊ မဟာဝင်တို့ အလိုအရ ထိုကျွန်းကို လူနေနိုင်ငံအဖြစ် စတင်တည်ထောင်ခဲ့သော ဝိဇယမင်းသားနှင့် အပေါင်းပါတို့ ဖောင်ဆိုက်သည့် နေ့သည် ကုသိနာရုံ၌ ဂေါတမ မြတ်စွာဘုရားသခင် ပရိနိဗ္ဗာန် စံတော်မူသော နေ့ဟု ဆိုကြလေသည်။

ဝိဇယ မင်းသားသည် သီဟိုဠ်ကျွန်းကို လူနေနိုင်ငံအဖြစ် ထူထောင်၍ တကျွန်းလုံး၏ ဧကရာဇ်အဖြစ် ခံယူကာ ရှေးဦးစွာ ရာဇရတနာဟု ခေါ်သော မြို့ကို မင်းနေပြည် ပြုလျက် စိုးစံသည်။ နောင်အခါတွင်မူ အနုရာဓပူရမြို့သည် မင်းနေပြည် ဖြစ်လာ၍ အလွန်ထင်ရှား ကျော်ကြားခဲ့သည်။ သီဟိုဠ် ရာဇဝင်သမိုင်း၌ အထင်ရှားဆုံးသော အဖြစ်အပျက်မှာ ဘီစီ ၂၅၇ ခုနှစ်တွင် အိန္ဒိယနိုင်ငံမှ မဂဓပြည့်ရှင် သီရိဓမ္မာသောကမင်းကြီး၏ သားတော် ရှင်မဟိန္ဒရဟန္တာ အရှင်မြတ်သည် သီဟိုဠ်ကျွန်းသို့ သာသနာပြုကြွရောက်လာခြင်း ဖြစ်ပေသည်။ ထိုခေတ် အခါသည် အနုရာဓပူရ မြို့တော်ကြီး၌ ဒေဝါနံပိယတိဿမင်း စိုးစံနေချိန်ဖြစ်၍ ထိုမင်းကလည်း ဗုဒ္ဓသာသနာတော်ကို အလွန်ခြီးမြှင့်သဖြင့် ထိုအချိန်အခါမှစ၍ ဗုဒ္ဓသာသနာ ရောင်ဝါသည် သီဟိုဠ်ကျွန်း၌ နေရောင် လရောင်ပမာ ထွန်းလင်းတောက်ပ ခဲ့လေသည်။ လင်္ကာဒီပခေါ် သီဟိုဠ်ကျွန်း၌ ဗုဒ္ဓသာသနာမျိုးစေ့ စတင်မြုပ်နှံရာသည် အနုရာဓမြို့တော်ကြီး ဖြစ်လေသည်။

အနုရာဓမြို့တော် ထွန်းကားသည့် ခေတ်သည် ခရစ် ၁၀ ရာစုနှစ်တိုင်အောင် အဓွန့်ရှည်ကြာစွာ တည်တံ့ခဲ့လေသည်။ သီဟိုဠ်ကျွန်းသည် အခြား အရှေ့တိုင်း နိုင်ငံများနှင့် မတူထူးခြားချက်မှာ (မဟာဝင်)မဟာဝံသခေါ် ရှေးသမိုင်း

မှတ်တမ်းများ ရှိခဲ့ခြင်းပေတည်း။ ထိုကျွန်းကို လူနေကျွန်းအဖြစ် စ၍တည်ထောင်သည့် အချိန်မှသည် မဟာ သေနမင်း၏ လက်ထက် ( ခရစ်နှစ် ၃၀၄ )တိုင်အောင် ကျွန်း၏ သမိုင်းကို ဖော်ပြသော ဒီပဝင်(ဒီပဝံသ)ခေါ်သည့် ကျမ်းတစောင်သည် လေးရာစုနှစ်တွင် ပေါ်ထွက်လာလေသည်။ နောင်အနှစ် ၁၀၀ ခန့် အကြာတွင် မဟာဝင်ကျမ်း ပေါ်ထွက်လာသည်။ ထို မဟာဝင်ကျမ်းကို မင်းအဆက်ဆက်တို့ ဖြည့်စွက် ဆက်လက် ပြုစုခဲ့ကြရာ၊ ၁၈၁၅ ခုနှစ်အထိ သမိုင်းစဉ်များ ပါရှိ၍ အခန်းကဏ္ဍပေါင်း ၁၀၀ ခန့် ပါဝင်သည်။ ထိုဒီပဝင်နှင့် မဟာဝင်တို့ကို ပါဠိဘာသာဖြင့် ပြုစုထားလျက် သီဟိုဠ်ကျွန်း၏ သမိုင်းဖြစ်စဉ်များ အတွက် အလွန် အထောက်အပံ့ ရရှိသော ရည်ညွှန်းကျမ်းများ ဖြစ်လေသည်။

သီဟိုဠ်သားတို့၏ ထူးခြား မှတ်သားဖွယ် ကောင်းသော စွမ်းဆောင်မှုများသည် အနုရာဓ ခေတ်တွင် ပေါ်ထွက်ခဲ့သည်။ ဘုရင်စိုးမင်းတို့သည် သက်ဦးဆံပိုင်များ ဖြစ်ကြသော်လည်း စိတ်ကောင်းစေတနာရှိကြ၍ အများအကျိုးပြု ပုဂ္ဂိုလ်များ များပြားသည်။ ဘုရင်များသည် ဗုဒ္ဓဝါဒီများ ဖြစ်ကြ၍ ဗုဒ္ဓသာသနာတော်ကိုလည်း အလွန် ချီးမြှင့်ကြသည်။ အုပ်ချုပ်ရေးသည် ဒီမိုကရေစီဆန်၍ ကျေးရွာဇနပုဒ်တိုင်အောင် ကိုယ်ပိုင်အုပ်ချုပ်ရေး အဆင့်အတန်းမျိုး ရှိသည်။ နိုင်ငံတခုလုံး၏ အခြေခံ စီးပွားရေးသည် စိုက်ပျိုးရေးဖြစ်သည်။ ယဉ်ကျေးမှုရေးရာတွင် အိန္ဒိယမြောက်ပိုင်းနှင့် ကူးလူး ဆက်ဆံမှု များပြားလေသည်။ ထိုခေတ်တွင် အထင်ရှားဆုံးသော မင်းမှာ ဒုဋ္ဌဂါမဏိမင်း ဖြစ်ပေသည်။

သီဟိုဠ်ကျွန်းကို အိန္ဒိယ တောင်ပိုင်းမှ တမိလ်(ဓမိလ) ကျေးကုလားတို့ မကြာခဏ လာရောက်တိုက်ခိုက် ဖျက်ဆီးကြသည်။ ယင်းတို့၏အရှင် ဘုန်းလက်ရုံးနှင့် ပြည့်စုံသော ဧဠာရ ကျေးကုလားမင်းကို ဒုဋ္ဌဂါမဏိမင်းက အောင်နိုင်ကာ၊ သီဟိုဠ်ကျွန်းနှင့် ဗုဒ္ဓသာသနာတော်ကို ကျေးကုလားတို့၏ ရန်မှ ကယ်တင်နိုင်ခဲ့လေသည်။ ထိုမင်းသည် သာသနာတော်၌ အလွန် ကြည်ညိုလေးစား၍ သီဟိုဠ်ကျွန်း၏ အဓိကရ စေတီတော်ကြီးဖြစ်သော မဟာစေတီတော်ကြီးကို တည်ဆောက်ခဲ့လေသည်။

အနုရာဓ မြို့တော်ကြီးတွင် ဗုဒ္ဓသာသနာကို ချီးမြှင့်ကြသော မင်းများ၏ကောင်းမှု သာသနိက အဆောက်အအုံများဖြင့် ပြည့်နှက်စည်ကားခဲ့သည်။ လူနေမှု အဆင့်အတန်းမြင့်၍ ထိုမြို့တော်ကြီးတွင် ယဉ်ကျေးမှု အရပ်ရပ်တို့လည်း တိုးတက်ခဲ့သည်။ ခရစ် ၄ ရာစုနှစ်တွင် ဂရိ၊ ရောမ၊ အာရပ်၊ အီဂျစ်နှင့် တရုပ်နိုင်ငံတို့သည် ထိုမြို့တော်ကြီးကို အကြောင်းပြု၍ သီဟိုဠ် အကြောင်း သိရှိနေကြပေပြီ။ ယင်းသို့ ကြီးကျယ် စည်ကားသိုက်မြိုက်ခဲ့သော မြို့တော်ကြီးမှာ ယခုအခါ ယခင်က ထွန်းတောက်ကောင်းစားခဲ့သည့် အရှိန်အဝါကို အရိပ်အရောင်မျှပင် မတွေ့ရလောက်အောင် မြို့ပျက်ကြီးဖြစ်နေလေပြီ။

ဆယ်ရာစုနှစ်ကုန်ဆုံးလုနီးတွင် အိန္ဒိယနိုင်ငံ တောင်ပိုင်းမှ စောဠမင်းတို့သည် သီဟိုဠ်ကျွန်းသို့ လာရောက်တိုက်ခိုက်သိမ်းပိုက်ကြပြီးလျှင် အနုရာဓမြို့တော်ကြီးကို ဖျက်ဆီးပစ်ကြပြီးနောက် ပေါဠုဏ္ဏရုဝဟူသော မြို့တော်သစ်ကို တည်ထောင်ကြကာ စောဠမင်းဆက်တို့ စိုးစံအုပ်ချုပ်ကြသည်။ သို့သော် နှစ်ပေါင်း ၆၀ ခန့်မျှသာ ထိုမင်းဆက်တို့ စိုးစံရ၍ နောင်အခါ ပဌမ ဝိဇယဗာဟုအမည်ခံယူသောမင်းသည် စောဠမင်းဆက်တို့ကို တိုက်ထုတ်ပစ်ပြီးလျှင် ပေါဠုဏ္ဏရုဝမြို့ကြီးတွင် ဆက်လက်စိုးစံမင်းပြုသည်။ ထိုမြို့တော်ကြီးသည် နောင် နှစ်ပေါင်း ၂၀၀ ခန့်မျှ ဘုရင့်နေပြည်တော်ကြီးအဖြစ် ဆက်လက်ထွန်းကားခဲ့သည်။ ပဌမ ဝိဇယဗာဟုမင်းကစ၍ နောင်ဆက်ခံသူ မင်းအဆက်ဆက်တို့သည်လည်း စောဠမင်းတို့၏ အုပ်ချုပ်ရေးစံနစ်အတိုင်း ဆက်ခံဆောင်ရွက်ကြ၍ နိုင်ငံရေးရာ အကြောင်းကြောင်းတို့အရ အိန္ဒိယတောင်ပိုင်း တိုင်းပြည်များနှင့် အဆက်အဆံများခဲ့လေသည်။ ထို့ကြောင့် ထိုခေတ်အနုပညာလက်ရာများတွင် ဒြာဗီးဒီးယန်းနှင့် ဟိန္ဒူယဉ်ကျေးမှုတို့၏ လွှမ်းမိုးမှုဖက်စပ်ပါဝင်မှုများကို တွေ့ကြရလေသည်။

ပေါဠုဏ္ဏရုဝမြို့တော်ကြီး ထွန်းကားသည့်ခေတ်တွင် အထင်ရှားဆုံးသောမင်းသည် ခရစ် ၁၁၅၃ ခုနှစ်မှ ၁၁၈၆ ခုနှစ်အတွင်း စိုးစံသော ပဌမမြောက် (မဟာ) ပရက္ကမဗာဟုမင်းဖြစ်သည်။ အိန္ဒိယတောင်ပိုင်းမှ မကြာခဏလာရောက်တိုက်ခိုက်မှုများကြောင့် နိုင်ငံ၏အခြေအနေအကွဲကွဲအပြားပြားဖြစ်၍နေခြင်းကို ထိုမင်းသည် ပြန်လည်စုစည်းစေပြီးလျှင် ခိုင်ခံ့မြဲမြံစွာ အုပ်ချုပ်ခဲ့သည်။ အိန္ဒိယတောင်ပိုင်း နိုင်ငံအချို့သို့လည်း မိမိ၏တပ်မတော်များကို ချီတက်တိုက်ခိုက်စေကာ အောင်ပွဲများ ရရှိခဲ့သည်။ ထိုမင်းသည် မင်းကျင့်တရား ၁၀ ပါးနှင့်အညီ မင်းပြုသည်။ နိုင်ငံတွင်း၌ ခိုးသားဓားပြ စသည့် ဆူပူသောင်းကျန်းမှုများ ငြိမ်းအေးစေပြီးလျှင် ရိက္ခာ လုံလောက် ပြည့်ဝရေးကို ဆောင်ရွက်စေသည်။ ကျောင်းကန်ဘုရား စသည့် သာသနိက အဆောက် အအုံများကို ကြီးကျယ်စွာ ဆောက်လုပ်လှူဒါန်းခဲ့လေသည်။ ပေါဠုဏ္ဏရုဝမြို့ကြီး ထွန်းကားသည့်ခေတ်တွင် သီဟိုဠ်ကျွန်းသည် ကမ္ဘောဒီးယား၊ တရုပ်စသည်တို့ကဲ့သို့ ခရီးဝေးကွာသော နိုင်ငံများနှင့်ပင် အဆက်အဆံရှိခဲ့လေသည်။

တဆဲ့သုံးရာစုနှစ်တွင် ဓမိလကျေးကုလားတို့ လာရောက်တိုက်ခိုက်ပြန်သဖြင့် ပေါဠုဏ္ဏရုဝမြို့တော်ကြီး ပျက်စီးရပြန်

လေသည်။ထိုနောက်တွင်ကားဘုန်းလက်ရုံးဖြင့်ပြည့်စုံသော မင်းများလည်း မပေါ်ပေါက်၊ အနုရာဓ၊ ပေါင္ဃာရုဝတို့ကဲ့သို့ ထင်ပေါ်ကျော်ကြားသော မြို့ကြီးများလည်း မထွန်းကားနိုင်တော့ချေ။ အိန္ဒိယတောင်ပိုင်းမှရှင်း၊ မလ္လာယုကျွန်းဆွယ်မှရှင်း၊ တရုပ်နိုင်ငံမှရှင်း လာရောက်တိုက်ခိုက်ခြင်းများကိုလည်း မကြာခဏ ခံရပြီးလျှင် သီဟိုဠ်မင်းတို့သည် မိမိတို့၏နေပြည်တော်ကို တမြို့ပြီးတမြို့ ရွှေပြောင်းနန်းစိုက်ခဲ့ကြရာ မင်းနေပြည်တော်များသည် အထူးသဖြင့် အနောက်ဖက်ကမ်းရိုးတန်းဖက်သို့ တဖြည်းဖြည်းနီးကပ်သွားလေသည်။ ယင်းသို့ မငြိမ်မသက် ခေတ်ကြီးအတွင်း၌ ထူးခြားထင်ရှားသည်ဟု ဆိုရသော မင်းတပါးမှာ ဒုတိယ ပရက္ကမဗာဟု ဖြစ်ပေသည်။ ထိုမင်း၏ နောက်ဆက်ခံသောမင်းတို့မှာ ပျော့ညံ့သောမင်းများ ဖြစ်ကြ၍ ဓမ္မိလ ကျေးကုလားတို့၏ရန်ကိုလည်း မတွန်းလှန်နိုင်ကြတော့သဖြင့် သီဟိုဠ်ကျွန်းမြောက်ပိုင်းသည် ကျေးကုလားတို့၏လက်အောက်သို့ ကျရောက်ကာ ပြည်ငယ်အများကွဲပြားလျက်ရှိခဲ့သည်။ တောင်ပိုင်းသည်မူ ကျေးကုလားတို့၏လက်အောက်ခံမဟုတ်ချေ။ ထိုခေတ်တွင် ကျေးကုလားတို့၏ရန်ကို တွန်းလှန်နိုင်ခဲ့သော သီဟိုဠ်မင်းကား ဆဌမ ပရက္ကမဗာဟုဖြစ်၍ ယခု ကိုလံဗိုမြို့အနီးရှိ ကုတ္တေမြို့၌ စိုးစံခဲ့သည်။ သို့သော် သီဟိုဠ်ကျွန်းကား ပြန်လည်ပေါင်းစည်းခြင်း မရှိတော့ချေ။

၁၅၀၅ ခုနှစ်တွင် ပေါ်တူဂီများသည် သီဟိုဠ်ကျွန်းသို့ ရောက်လာသည်။ ထိုအချိန်တွင် သီဟိုဠ်မင်းတို့ ထီးပြိုင်နန်းပြိုင် စိုးစံနေကြသည့်အပြင် ဂျက်ဖနာမြို့တွင် ဓမ္မိလ ကျေးကုလားတို့ကလည်း တထီးတနန်း စိုးစံနေကြသည်ကို တွေ့ရသည်။ ပေါ်တူဂီတို့သည် ထိုပြည်ထောင်များကို တဖြည်းဖြည်း သိမ်းသွင်းခဲ့ရာ ကန္ဒီမှတပါး အခြားပြည်ထောင်တို့သည် ပေါ်တူဂီတို့လက်အောက်သို့ ကျရောက်ခဲ့ကြလေသည်။ ပေါ်တူဂီတို့သည် မိမိတို့၏ ယဉ်ကျေးမှုနှင့် ခရစ်ယန်အယူဝါဒကိုပါ ထိုအခါမှစ၍ သီဟိုဠ်ကျွန်း၌ ပျံ့နှံ့စေခဲ့လေသည်။

သီဟိုဠ်ကျွန်းတွင် မင်းမူနေသော ပေါ်တူဂီတို့အား နိုင်သူပေါ်လာပြန်ပေရာ ယင်းတို့မှာ ဒပ်ချ်များ ဖြစ်သည်။ ဒပ်ချ်တို့သည် ၁၆၅၆ ခုနှစ်၌ ကိုလံဗိုမြို့ကို သိမ်းယူသည်။ ဒပ်ချ်တို့သည် သီဟိုဠ်ကျွန်း၏ အုပ်ချုပ်ရေး၊ ကုန်သွယ်စီးပွားရေးတို့ မြဲမြံခိုင်ခံ့အောင် ဆောင်ရွက်လေသည်။

ဒပ်ချ်တို့ကို ဗြိတိသျှတို့က တဖန်တိုက်ထုတ်ပြန်သည်။ ခရစ် ၁၇၉၆ ခုနှစ်တွင် ဒပ်ချ် ဘုရင်ခံသည် မိမိလက်အောက်ရှိ နယ်ပယ်အားလုံးကို ဗြိတိသျှတို့အား ပေးအပ်ရလေသည်။ နှစ် နှစ်ခန့်မျှ ဗြိတိသျှ အစိုးရသည် မဒရပ်မြို့ရှိ အရှေ့အိန္ဒိယကုမ္ပဏီမှတဆင့် သီဟိုဠ်ကျွန်းကို အုပ်ချုပ်ခဲ့သည်။ ယင်းသို့ အုပ်ချုပ်ခြင်းကို သီဟိုဠ်သားတို့က မနှစ်သက်ကုန်။ ထို့ကြောင့် ဆူပူလှုပ်ရှားမှု၊ ပုန်ကန်မှုများ ပေါ်ပေါက်လာသဖြင့် ၁၇၉၈ ခုနှစ်တွင် သီဟိုဠ်ကျွန်းကို ကရောင်း ကိုလိုနီစံနစ်ဖြင့် အုပ်ချုပ်ရလေသည်။

ထိုအချိန်တိုင်အောင် ဗြိတိသျှတို့သည် ကန္ဒီမြို့ကို မသိမ်းပိုက်နိုင်သေးချေ။ နောင်အခါတွင် ကန္ဒီမြို့၌ စိုးစံနေသော သီဟိုဠ်မင်း သီရိ ဝိကရမမင်းနှင့် ဗြိတိသျှတို့အချင်းပွား၍ ထိုမင်းကိုလည်း အများပြည်သူတို့က မလိုလားသဖြင့် သီရိ ဝိကရမမင်းသည် ထီးနန်းကို စွန့်ရသည်။ ထိုအခါတွင်မှ သီဟိုဠ်တကျွန်းလုံးသည် ဗြိတိသျှလက်အောက်သို့ ကျရောက်ခဲ့လေသည်။

ဗြိတိသျှတို့သည် တကျွန်းလုံးကို ကရောင်းကိုလိုနီ အုပ်ချုပ်ရေးစံနစ်ဖြင့် အုပ်ချုပ်သည်။ အင်္ဂလိပ်အစိုးရသည် သီဟိုဠ်ကျွန်းတွင် ကာဖီပင်၊ ထိုနောက် လက်ဖက်ပင်၊ ရာဗာပင်တို့ကို စတင်စိုက်ပျိုး၍ ယင်းစိုက်ပျိုးရေး ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ပေးသည်။ ထိုကျွန်းသည် ဗြိတိသျှအစိုးရအတွက် စစ်သေနင်္ဗျူဟာအရရှင်း၊ ကုန်သွယ်စီးပွားရေးအတွက်ရှင်း အချက်အချာကျသော ကိုလိုနီတခု ဖြစ်ပေသည်။ သီဟိုဠ်သားတို့ကလည်း အုပ်ချုပ်ရေးစံနစ်ကို တိုးတက်ပေးရန် တောင်းဆိုလာကြသဖြင့် တစတစ တိုးတက်ပေးခဲ့လေသည်။

ဒုတိယကမ္ဘာစစ်အတွင်းက မဟာမိတ်တို့၏ အာရှအရှေ့တောင်ပိုင်း စစ်ဌာနချုပ်ကို သီဟိုဠ်ကျွန်းတွင် ဖွင့်လှစ်ထားခဲ့သည်။ အရှေ့တောင်အာရှမှ ဖက်ဆစ်ဂျပန်များကို တိုက်ထုတ်ရန် မဟာမိတ်တပ်များကို သီဟိုဠ်ကျွန်း၌ လေ့ကျင့်ပေးရသည်။ စစ်ကြီးပြီးဆုံးပြီးနောက် ၁၉၄၈ ခုနှစ် ဖေဖွာရီလ ၄ ရက် နေ့တွင် ဗြိတိသျှအစိုးရက သီဟိုဠ်ကျွန်းကိုဗြိတိသျှဓနသဟာယအဖွဲ့ဝင် ဒိုမီနီယန် နိုင်ငံတခု အဖြစ် တိုးတက်သတ်မှတ်ပေးခဲ့လေသည်။

သီဟိုဠ်ကျွန်း၏ အုပ်ချုပ်ရေးစံနစ်သည် ပါလီမန် ဒီမိုကရေစီစံနစ်ဖြစ်လေသည်။ သီဟိုဠ်ပါလီမန်တွင် အထက်အောက် လွှတ်တော်နှစ်ရပ် ပါဝင်သည်။ ယခုလက်ရှိ ဗြိတိသျှဘုရင်မကို နိုင်ငံ၏ အထွတ်အထိပ်အဖြစ် ထားရှိ၍ ဘုရင်မကို သီဟိုဠ်သားဘုရင်ခံချုပ်က ကိုယ်စားပြုသည်။

သို့သော် အုပ်ချုပ်ရေးတွင် တကယ်တမ်း အာဏာရှိသူမှာ အစိုးရအဖွဲ့ခေါင်းဆောင် ဝန်ကြီးချုပ်ဖြစ်သည်။ ယခုလက်ရှိဝန်ကြီးချုပ်သည် သီရိမာဗို ဗန္ဒရာနိုက်ကေးဖြစ်၍ ကမ္ဘာပေါ်တွင် ပဌမဆုံးသော အမျိုးသမီး ဝန်ကြီးချုပ်ပေတည်း။

၁၉၅၉ ခုနှစ် စက်တင်ဘာလ ၂၅ ရက်နေ့တွင် ခင်ပွန်းသည်ဖြစ်သူ သီဟိုဠ်ဝန်ကြီးချုပ်ဆော်လမွန် ဗန္ဒရာနိုက်ကေး လုပ်ကြံခံရသည်မှ အစပြု၍ ခင်ပွန်းသည်၏ သီရိလက်ာ



မြတ်စွာဘုရား၏စွယ်တော်မြတ် ကိန်းဝပ်ရာ ကန္ဒီမြို့

လွတ်လပ်ရေးပါတီခေါင်းဆောင်နေရာကို ဆက်ခံခဲ့သည်။ ၁၉၆၀ ပြည့်နှစ် ပါလီမန်ရွေးကောက်ပွဲတွင် ဝင်ရောက်အရွေးခံရာ မဲဆန္ဒအများဆုံး ရရှိသူတဦးဖြစ်ခဲ့၍ ထိုနှစ်ဇူလိုင်လ ၂၁ ရက်နေ့တွင် ဝန်ကြီးချုပ်ရာထူးကို လက်ခံဆောင်ရွက်ခဲ့လေသည်။

သီဟိုဠ်ကျွန်းသည် ဒုတိယကမ္ဘာစစ်ပြီးခေတ်၌ အာရှတိုက်အရေးတွင် အရေးပါ အရာရောက်သော နိုင်ငံတခုဖြစ်လာသည်။ ကြားနေရေးဝါဒကိုလည်း တည့်မတ်စွာကျင့်သုံးခဲ့သည်။ ၁၉၅၀ ပြည့်နှစ်တွင် ကိုလံဗိုမြို့၌ တည်ထောင်သော ကိုလံဗိုစီမံကိန်းကို ပေါက်ဖွားပေးသည့် ဓနသဟာယအဖွဲ့ဝင် နိုင်ငံများတွင် သီဟိုဠ်သည် ခေါင်းဆောင်တဦးဖြစ်သည်။ ထိုပြင် အာရှ အာဖရိကနိုင်ငံများစည်းလုံးရေးအတွက် ဗန်ဒေါင်းညီလာခံ ဖြစ်မြောက်ရေးကို ကြိုးပမ်းသော နိုင်ငံများတွင်လည်း ရှေ့တန်းမှ ပါဝင်ခဲ့လေသည်။ ၁၉၆၂–၆၃ ခုနှစ်အတွင်း အိန္ဒိယ–တရုပ်နယ်နိမိတ်ပြဿနာနှင့် စပ်လျဉ်း၍ ထိုနှစ်ပြည်ထောင်တို့တင်းမာမှု လျော့ပါးစေရန် စေ့စပ်ဖြန်ဖြေရေးတွင် သီဟိုဠ်နိုင်ငံကပင် ခေါင်းဆောင်လျက် ကိုလံဗို ခြောက်နိုင်ငံအဖွဲ့ဟူ၍ ဖွဲ့စည်းပြီးလျှင် ကြိုးပမ်းခဲ့သည်။

၁၉၆၅ ခုနှစ် မတ်လ ၂၂ ရက်နေ့တွင် ကျင်းပခဲ့သော သီဟိုဠ်ပါလီမန် ရွေးကောက်ပွဲတွင် ဝန်ကြီးချုပ် သီရိမာဗိုဗန္ဒရာနိုက်ကေး၏ပါတီ အရေးနိမ့်သွား၍ မစ္စတာဒဒ္ဒလီဆင်နာနာယကေး ခေါင်းဆောင်သည့် အတိုက်အခံပါတီဖြစ်သော ညီညွတ်သော အမျိုးသားပါတီက အောင်ပွဲခံခဲ့လေသည်။ မစ္စတာဒဒ္ဒလီဆင်နာနာယကေးဦးဆောင်လျက် ဝန်ကြီး ၁၇ ဦးပါဝင်သော သီဟိုဠ်အစိုးရ အဖွဲ့သစ်သည် မတ်လ ၂၇ ရက်နေ့တွင် ကျမ်းသစ္စာ ကျိန်ဆိုကာ နိုင်ငံအုပ်ချုပ်ရေးကို စတင်ဆောင်ရွက်ခဲ့လေသည်။

၁၉၇၀ ပြည့်နှစ် ပါလီမန်ရွေးကောက်ပွဲတွင် သီရိမာဗိုဗန္ဒရာနိုက်ကေး၏ပါတီ အောင်ပွဲခံနိုင်ခဲ့ပြန်၍ သီရိမာဗိုဗန္ဒရာနိုက်ကေးသည် ဝန်ကြီးချုပ်ပြန်ဖြစ်လာခဲ့သည်။

၁၉၇၂ ခုနှစ် မေလ ၂၂ နေ့တွင် သီဟိုဠ်နိုင်ငံကို သမတနိုင်ငံအဖြစ် ကျေညာခဲ့သည်။ ထိုသို့ ကျေညာခဲ့ပြီးနောက်နိုင်ငံ၏အမည်ကိုလည်း သီရိလင်္ကာသမတနိုင်ငံဟု အမည်ပြောင်းလိုက်လေသည်။

**သီဟိုဠ်သရက်ပင်။** ။အလွန်ဆိမ့်သော အရသာ ရှိသည့် သီဟိုဠ်သရက်စေ့အဆန်ကိုအကြောင်းပြု၍ သီဟိုဠ်သရက်ပင်ကိုလူသိများလေသည်။ ထိုအပင်၏ မူလပေါက်ရောက်ရာဒေသသည် တောင်အမေရိကတိုက်၏ အပူပိုင်းဒေသများနှင့်



**သီဟိုဠ်သရက်ရွက်နှင့်အသီးများ**

အနောက်အိန္ဒိယကျွန်းစုဖြစ်သည်။၁၅ ရာစုနှစ်တွင် ပေါ်တူဂီသာသနာပြုများက ယူဆောင်လာခဲ့သဖြင့် ထိုအပင်သည် တောင်အမေရိကတိုက်မှအာဖရိကတိုက်အရှေ့ပိုင်းနှင့် အိန္ဒိယနိုင်ငံ သီဟိုဠ်ကျွန်းတို့သို့ ရောက်ရှိလာခဲ့လေသည်။ ဆိုခဲ့သော ဒေသများရှိ ပင်လယ်ကမ်းရိုးတန်း တလျှောက်တွင် သီဟိုဠ်သရက်ပင်များ ကောင်းစွာ ဖြစ်ထွန်းရာမှ အခြားအပူပိုင်းဒေသများသို့လည်း မျိုးပြန့်ခဲ့လေသည်။

မြန်မာနိုင်ငံ အောက်ပိုင်းတွင် ဂဝံကျောက်ဖမြေ အညံ့စားများ၌ပင် သီဟိုဠ်သရက်ပင်တို့ ကောင်းစွာ ဖြစ်ထွန်းသည်ကို တွေ့ရ၍ အထူးသဖြင့် တနင်္သာရီနှင့် ရခိုင်ကမ်းရိုးတန်း ဒေသများတွင် ပိုမို ဖြစ်ထွန်းသည်။ တနင်္သာရီတိုင်း ကမ်းရိုးတန်း တလျှောက်တွင် အလေ့ကျပေါက်ကာ တောဖြစ်၍ပင် နေသည်။ တနင်္သာရီတိုင်း ထားဝယ်ဖက်တွင် သီဟိုဠ်သရက်ပင်ကို ရှစ်ကလစ်ပင် ဟူ၍ ခေါ်ကြသည်။ ပဲခူးနှင့် ရေဝတီတိုင်းတို့တွင်လည်း သီဟိုဠ်သရက်ပင်များ ပေါက်ရောက်သည်ကို တွေ့ရသည်။ ကမ်းရိုးတန်းဒေသတို့၌ ပေါက်ရောက် ဖြစ်ထွန်းသည်ဟု ဆိုရသော်လည်း ထိုအပင်တို့သည်မြေပြင်အမြင့် ပေ ၃,၀၀၀ ထိရှိသော အရပ်ဒေသများ၌လည်း ပေါက်ရောက်နိုင်လေသည်။ သို့သော် ထိုအပင်များသည် နှင်းပေါက်နှင်းခဲဒဏ်ကို မခံနိုင်ကြချေ။

သီဟိုဠ်သရက်ပင်သည် သရက်မျိုးတွင် ပါဝင်၍ အန်နကာဒီယေးစီအီးမျိုးရင်းဝင် ဖြစ်သည်။ ရုက္ခဗေဒ အမည်ဖြင့် အန်နကာဒီယမ် အော့ဆီဒင်တယ် ဟု ခေါ်သည်။အနောက်တိုင်းသရက်ဟု ခေါ်ဆိုရပေမည်။ ထိုအပင်တို့သည် အမြဲစိမ်းလန်း၍ အကိုင်းအခက် ဝေဆာသော အပင်မျိုး ဖြစ်ပြီးလျှင် ပေ ၃၀ မှ ၄၀ အထိ အမြင့်ရှိနိုင်လေသည်။ အလွန်ညံ့သောမြေ၌ ပေါက်ရောက်လျှင်မူ ခြုံပုတ်သာသာမျှသာ ရှိတတ်လေသည်။

သီဟိုဠ်သရက်ရွက်တို့သည် ရွက်လှဲထွက်၍ အရှည်လေးလက်မမှ ရှစ်လက်မအထိ ရှိပြီးလျှင် ပြက်အကျယ်သုံးလက်မမှ ငါးလက်မ အထိ ရှိတတ်သည်။ အမွေးအမှင် မရှိပဲ ပြောင်ချောဖြစ်ပြီးလျှင် တောင့်တောင့်ကလေး နေ၍ အနားညီသည်။ အရင်းသွယ်၍ ထိပ်တုံးသော အရွက်မျိုး ဖြစ်လေသည်။

ဒီဇင်ဘာ လလယ်လောက်မှ ဖေဖွာရီ လဆန်းအထိ ဆောင်းရာသီအတွင်း၌ သီဟိုဠ်သရက်ပင်တို့ အပွင့်ပွင့်ကြသည်။ အပွင့်တို့သည် ထိပ်ဖျားထွက်ရှိသော ပန်းခိုင်မျိုးဖြင့် ပွင့်ကြ၍ ပန်းခိုင်သည် ခြောက်လက်မမှ ၁၀ လက်မ အထိ အမြင့် ရှိနိုင်သည်။ သေးငယ်၍ အနံ့သင်းသော အပွင့်ကလေး၏ အရောင်သည် အဝါရောင်ဖြစ်ပြီးလျှင် ပန်းရောင်စင်းကလေးများ ရှိသည်။ အပွင့်များသည် ဝတ်ဆံအဖိုရော အမပါ ပါဝင်သော အပွင့်မျိုး ဖြစ်လေသည်။

သီဟိုဠ်သရက်သီးသည် အသီး၏ အပြင်ဖက်သို့ ငှက်နှုတ်သီးပမာ ငေါ်ထွက်နေသော အစေ့ ရှိသဖြင့် ပုံပန်းသဏ္ဌာန် ထူးခြားလေသည်။ အသီးတွင် အစိတ်အပိုင်းနှစ်ခု ပါဝင်သည်။ပဌမပိုင်းသည် သစ်သော့သီး ပုံသဏ္ဌာန်ရှိသည့် အသားများသော အသီးအညှာတန်ဖြစ်လေသည်။သာမန်လူတို့အနေဖြင့် ယင်းကိုပင် အသီးဟုယူဆကြသည်။ အသီးမှည့်သည့်အခါ အရည် ရွှမ်း၍ ချဉ်ဖန့်ဖန့် အရသာရှိသည်။ အချို့ သီဟိုဠ်သရက်ပင်တို့၏ အသီးမှည့်သည် အဝါရောင်ဖျော့ဖျော့ဖြစ်၍ အချို့အပင်၏ အသီးသည် လိမ်မော်ရင့်ရောင်ဖြစ်သဖြင့် အသီးမှည့် အရောင်ကို လိုက်၍ သီဟိုဠ်သရက်ပင်ကို နှစ်မျိုးခွဲခြားကြသည်။ လိမ်မော်ရင့်ရောင်ရှိသောအသီးမှည့်သည်ပို၍အရည်ရွှမ်းပြီးလျှင် အနံ့အရသာပို၍ကောင်းသည်ဟု ဆိုကြသည်။ ထိုအသားပိုင်းမှ ညှစ်ယူရရှိသော အရည်ကို သေရည်တမျိုး ပြုလုပ်နိုင်သည်။ အာဖရိကတိုက် မိုဇမ်ဗစ်ပြည်နယ်တွင် ထိုသေရည်ကို လိုင်စင်ဖြင့် ရောင်းချသည်။ ထိုအရည်သည် စကာဗီ ဟုခေါ်သော ဒူလာရောဂါ၊ မီးယပ်ပိန် မီးယပ်ခြောက် ရောဂါမျိုးများအတွက်ကောင်းသည်ဟုဆိုကြသည်။မြန်မာဆေးကျမ်းများအရမူ သီဟိုဠ်သရက်သီးမှည့်သည် ချို၏။ ဖန်၏။ ခံတွင်းရှင်းစေ၏။ ကြေခဲ၏။အေး၏။ အဆီမရှိ၊ ချုပ်၏။ ဝမ်းရောင်ခြင်း လေနာခြင်းကို ဖြစ်စေနိုင်သည်။ သလိပ်သည်းခြေကို နိုင်သည်ဟုဆိုလေသည်။ သို့သော် သီဟိုဠ်သရက်

ပင်ကို အသီးထက် အဆိမ့်အရသာနှင့်ပြည့်စုံသော အစေ့ဆန်ကြောင့် ပို၍တန်ဖိုးထားကြလေသည်။

အထက်တွင် ဆိုခဲ့သည့်အတိုင်း အသီး၏အစိတ်အပိုင်း နှစ်ခုအနက် အပြင်သို့ ငေါ်ထွက်နေသော အစေ့နှင့်တူသည့် အပိုင်းသည် အသီး၏ ဒုတိယပိုင်းဖြစ်သည်။ စင်စစ် ယင်းသည်သာလျှင် အသီးစစ်စစ်ဖြစ်သော်လည်း လူသာမန်တို့က အစေ့ ဟူ၍ ခေါ်ဝေါ်နေကြလေသည်။ ထိုအစိတ်အပိုင်းသည် ပဲစေ့နှင့်ပုံပန်းသဏ္ဍာန်တူသည်။တလက်မမှ တလက်မခွဲခန့်ရှိပြီးလျှင် ညိုသယောင်ယောင်၊ မွဲသယောင်ယောင် အရောင်မျိုးရှိသည်။ ထိုအစေ့တွင် အခွံသုံးထပ် ပါရှိရာ အပြင်ခွံနှင့် အတွင်းခွံတို့သည် မာ၍ ခြောက်သည်။ အစေ့နားကပ်နေသော တတိယအခွံသည် အပူလောင်စေတတ်သော အဆီတမျိုး ထွက်သည်။ ထို့ကြောင့် အစေ့များကို မီးဖုတ်ပြီးမှဖြစ်စေ၊ လှော်ပြီးမှဖြစ်စေ စားသုံးကြရသည်။ ရှေးသမားရိုးကျနည်းဖြင့် အစေ့များကို မီးဖုတ်သည့်အခါ အစေ့ခွံကွဲပြီး အဆီများထွက်လာလျှင် ထိုအဆီသည် အလွန်မီးတောက်စေသည်။ ထိုမီးတောက်မှ မီးခိုးသည်ပင် မျက်စိနှင့် အသားအရေကိုအန္တရာယ်ဖြစ်စေသည်။ စင်စစ် ထိုအဆီသည်လည်း သူ့နေရာနှင့်သူ အသုံးကျလေသည်။

ခေတ်မှီနည်းစံနစ်၊ သိပ္ပံနည်းကျသော စံနစ်များဖြင့် ထုတ်ယူရရှိသည့် အစေ့ခွံမှ အဆီကို 'ကာဒို'ဟု ခေါ်ကြသည်။ ထိုအဆီဖြင့် သစ်သားများ၊ စာအုပ်များကို သုတ်လိမ်းထားလျှင် ခြမကိုက်နိုင်ဟုဆိုကြသည်။ ထို့ပြင် ပွေးနာ၊ အသားမာဖြစ်ခြင်း၊ ခြေဖဝါးတွင် ငပြေမပါးဟက် ဖြစ်ခြင်း၊ ဆင်ခြေထောက်ရောဂါ၊ကုဋ္ဌနူနာတို့ ကုသရန် ဆေးများတွင် ထည့်သွင်း အသုံးပြုကြသည်။ သို့ပင်ငြားလည်း ထိုအဆီသည် အသားအရေတွင် အဖုအပိမ့် ဖြစ်စေတတ်သဖြင့် သတိနှင့် သုံးစွဲကြရလေသည်။

သီဟိုဠ်သရက်ပင်၏ အဖိုးအတန်ဆုံး အစိတ်အပိုင်းဖြစ်သော အစေ့ဆန်သည် အလွန်အရသာရှိသဖြင့် အနောက်နိုင်ငံများတွင် ချောကလက်၊ ကိတ်မုံ့ စသည့် အချိုအဆိမ့် စားသောက်ဖွယ်ရာများ၌ ထည့်သွင်း အသုံးပြုကြသည်။ သီဟိုဠ်ကျွန်း၊ အိန္ဒိယနိုင်ငံနှင့် အာဖရိကတိုက်တို့မှ သီဟိုဠ်စေ့များကို ဥရောပတိုက် နိုင်ငံများသို့ အကြီးအကျယ် တင်ပို့ကြရလေသည်။ အစေ့ဆန်မှလည်း အဆီရနိုင်လေရာ၊ထိုအဆီသည် အဝါရောင်ဖျော့ဖျော့ဖြစ်၍ အနောက်နိုင်ငံများတွင် ထိုအဆီကို ဗာဒမ်ဆီနှင့် တန်းတူသုံးစွဲနိုင်အောင် ကောင်းမွန်သဖြင့် ကြော်ချက်ရာတွင် အသုံး ပြုကြလေသည်။

အပင်၏ အခေါက်မှ ရရှိသော အစေးသည် အာရဗစ်ကော်ကဲ့သို့ စာအုပ်ချုပ်ရာ၌ အသုံးပြုနိုင်သည်။အခေါက်ကို ဓားဖြင့်ထစ်၍ ထွက်လာသော အရည်ကိုမူ ဖျက်၍ပျက်ခဲသော မင်တမျိုး ပြုလုပ်နိုင်သည်။ တံငါသည်များသည် ထိုအရည်ဖြင့် ပိုက်ကွန်များကို အရောင်ဆိုးကြလေသည်။

သီဟိုဠ်သရက်ပင်ကို အစေ့ပျိုး၍ စိုက်ကြသည်။မိုးတွင်း၌ ကိုင်းကူး၍ အပင်ပျိုးနိုင်သော်လည်း ယင်းသို့ ပြုလုပ်ခြင်းမှာ နည်းပါးလှသည်။ ဂျားဗားကျွန်းတွင် ဖူးဆက်ကူးစိုက်နည်းဖြင့်လည်း အောင်မြင်စွာစိုက်ပျိုးနိုင်သည်ကိုတွေ့ရပေသည်။ ပျိုး၍စိုက်သောအပင်များကို တပင်နှင့်တပင် အနည်းဆုံး ပေ ၃၀ ခန့်ခွာ၍ စိုက်ပျိုးသင့်သည်။ အစေ့ပျိုး၍စိုက်သော အပင်များသည် ခြောက်နှစ် ခုနစ်နှစ်ကြာမှ အသီးသီးသော်လည်း ကိုင်းပျိုး၍စိုက်သော အပင်သည် လေးနှစ်ကြာလျှင် အသီးသီးလေသည်။

**သီးဆယု။** ။သီးဆယုသည် ဂရိထုံးဟောင်း ပုံပြင်လာ လူစွမ်းကောင်းတဦးဖြစ်၍ အက်သင်းဘုရင် အီးဂျူးနှင့် ထရီဇင်း မင်းသမီး အီးသရာတို့တွင်မြင်သော သားတော် ဖြစ်သည်။ အီးဂျူးသည် သီးဆယုမဖွားမီပင် အက်သင်းသို့ ပြန်သွားရာ သားတော်ဖွားမြင်ပါက ကျောက်တုံးအောက်တွင် သူဝှက်ထားသော ဓားလွတ်တစင်းနှင့် ခြေနင်းတစုံကိုယူစေ၍ လွှတ်လိုက်ရန် အက်သင်းသို့ မပြန်မီမှာခဲ့လေသည်။ သီးဆယုကား ဖွားမြင်ပြီး၍ အချိန်တန် အရွယ်ရောက် လူလားမြောက်လာသောအခါ ခမည်းတော်၏ မှာစကားအတိုင်း ကျောက်တုံးကြီးကို မ၍ ဓားလွတ်နှင့် ခြေနင်းကိုယူကာ ခမည်းတော်စံရာ အက်သင်းသို့ထွက်သွားလေသည်။

အက်သင်းသို့အသွားလမ်းတွင် သီးဆယုသည်တိုက်ခိုက် စွန့်စားခန်း အမျိုးစုံနှင့် တွေ့ကြုံရ၏။ အက်သင်းသို့ရောက်သောအခါ ခမည်းတော် အီးဂျူးဘုရင်သည် မီးဒီးယား ဆိုသော စုန်းမတဦးနှင့် ပေါင်းသင်းနေသည်ကို တွေ့ရ၏။ ထိုစုန်းမသည် သီးဆယုအား အဆိပ်ကျွေး၍ သတ်သော်လည်း သီးဆယုက ရိပ်မိသွားသဖြင့် အထမမြောက်ချေ။ ခမည်းတော်ကလည်း သီးဆယု ကိုင်လာသောဓားလွယ်ကို မြင်သဖြင့် မှတ်မိသွားလေသည်။

ခမည်းတော် အီးဂျူးဘုရင်ကြီးကား စွမ်းအင် ထက်မျက်သော သားတော်ကလေး ရောက်လာသည့်အတွက် တအားတတ်လျက် ရှိလေသည်။ အကြောင်းကား ထိုအချိန်တွင် အက်သင်းသည် ကရိတန်တို့၏ ဩဇာ ခံနေရသောကြောင့်တည်း။ နှစ်စဉ် နှစ်တိုင်း အက်သင်းမှ ယောကျ်ားပျို ခုနစ်ယောက်နှင့် မိန်းမပျို ခုနစ်ယောက်တို့ကို ကရိဘုရင် မိနိုထံ ဆက်သရ၏။ ယင်းတို့ကို မိနိုဘုရင်က လူတပိုင်း နွားတပိုင်းဖြစ်သော မိနိုတောသတ္တဝါကြီးအား အစာအဖြစ် ကျွေးလေသည်။ သီးဆယုရောက်ချိန်၌လည်း မိနိုတောကို ကျွေးရန် အက်သင်းမှ

လှုပ်ဖို့ အချိန်ကျနေပြီဖြစ်ရာ အီးဂျူးဘုရင်နှင့် တကွ တနယ်လုံး ကြိမ်မီးအုံးသကဲ့သို့ ပူဆွေးဒုက္ခရောက်နေကြလေသည်။ သီးဆယုသည် ယောကျ်ားပျိုခုနစ်ယောက် အနက် တယောက်အဖြစ်ဖြင့် လိုက်ပါသွားရန် သဘောတူ၏။ အကြောင်းမှာ သီးဆယုသည် နွားဘီလူးကြီးကို သတ်ဖြတ်နိုင်မည်ဟု မျှော်လင့်သောကြောင့် ဖြစ်သည်။ ကရိကျွန်းသို့ ရောက်သောအခါ ဘုရင့်သမီးတော် အာရီယပ်နီသည် သီးဆယု၏ လက္ခဏာသွင်ပြင်ကို မြင်ရ၍ မေတ္တာသက်ဝင်ကာ ဓားလွတ်တစင်းနှင့် အပ်ချည်တခင်ကို ပေး၏။ ဓားလွတ်မှာ မိနိုတောကို ခုတ်သတ်ရန်ဖြစ်၍ အပ်ချည်ခင်မှာ မိနိုတောကိုထားသော ဝင်္ကပါထဲမှ လက်ဖြင့်စမ်းကာ ထွက်ရန် ဖြစ်လေသည်။

သီးဆယုသည် အာရီယပ်နီ၏အကူအညီဖြင့် မိနိုတောကိုသတ်၍ ခက်ခဲသော ဝင်္ကပါခရီးမှ ထွက်နိုင်ခဲ့ပြီးသော် ထိုမင်းသမီးကို ခိုးယူတင်ဆောင်ကာ အက်သင်းသို့ ပြန်ခဲ့သည်။ အပြန်တွင် အောင်မြင်ပါက ရွက်ဖြူလွှင့်၍ လာရန် ခမည်းတော်က မှာလိုက်သော်လည်း မေ့တတ်လွန်းသော သီးဆယုသည် ရွက်နက်ကိုသာ လွှင့်ခဲ့မိသည်။ခမည်းတော်လည်း ရွက်ဖြူကိုမမြင်သော် သားတော် သေဆုံးပြီဟု ထင်မှတ်ပြီးလျှင် များစွာ စိတ်မချမ်းမသာဖြစ်ကာ ပင်လယ်ထဲသို့ခုန်ဆင်း၍ နတ်ရွာစံလေသည်။ ထိုပင်လယ်ကို အီးဂျူးဘုရင်ခုန်ဆင်းလေသည်ကိုစွဲ၍ အီးဂျီးယန်းပင်လယ်ဟု ယခုတိုင်ခေါ် ဝေါ် သည်။ (အီးဂျီးယန်းပင်လယ်–လည်းရှု။) သီးဆယုလည်း အက်သင်းဘုရင် ဖြစ်လာလေသည်။ သူ၏ ရဲစွမ်းသတ္တိရှိပုံမှာ အများအပြားပင် ဖြစ်၏။ ရွှေသိုးမွေးကို လှည့်လည် ရှာဖွေသော အာဂိုနော့ သူရဲကောင်းများထဲတွင်လည်း သီးဆယု ပါဝင်ခဲ့၏။ အမ္ဗဇုန် လူရိုင်းမများကိုလည်း အောင်နိုင်ခဲ့ဘူး၏။ တခါ၌ သီးဆယုသည် လက်ပိသီးဘုရင် ပိုင်ရစ်သိုးအပ်နှင့် လက်ရုံးရည်ချင်း ပြိုင်ဆိုင်ရန် တွေ့ကြရာတွင် သူရဲကောင်း နှစ်ဦးသည် တဦးကို တဦး ကြည်ညိုနှစ်သက်ကြသဖြင့် ရာသက်ပန် မိတ်ဆွေဖြစ်ရန် သစ္စာဆိုကြလေသည်။ တခါသော် ပိုင်ရစ်သိုးအပ်သည် စင်းတောသတ္တဝါများနှင့် တိုက်ခိုက်ရာ သီးဆယုက ဝင်ရောက်ကူညီခဲ့ပေ၏။ ထိုမျှသတ္တိကောင်းလှသော သီးဆယုသည် အက်သင်းနယ်သားများပုန်ကန်ထကြွကြရာတွင် သစ္စာမဲ့သူများ၏ လှည့်စား သတ်ဖြတ်ခြင်းကို ခံရလေသည်။ နောက်ဆုံး၌ လူအပေါင်းတို့သည် သီးဆယုကိုများစွာ ရိုသေလေးစား သတိရကြ၏။ မာရသွန်စစ်ပွဲတွင် သီးဆယု၏ ဝိညာဉ်သည် သံချပ်အင်္ကျီကို ဝတ်ဆင်လျက် အက်သင်းနယ်သားများ၏ တပ်ဦးက တိုက်ခိုက်ပေးသည်ဟုပင် ယုံကြည်ခဲ့ကြလေသည်။ ပါးရှင်းစစ်ပွဲများ ပြီးစီးသွားသောအခါ ဒဲလဖီနတ်ကွန်းမှ အဟောအတိုင်း အက်သင်းနယ်သားများသည် သီးဆယု၏ သင်းချိုင်းကို ရှာဖွေ၍ အရိုးများကို ယူဆောင်ပြီးလျှင် အက်သင်းမြို့ ဘုရားကျောင်းတခုထဲ၌ ထားရှိလေသည်။

**သီးပင်။** ။သနပ်ခါးခေါက်နှင့် ဆင်တူယိုးမှားဖြစ်သော သီးခေါက်ရရှိသည့် သီးပင်သည် သနပ်ခါး၊ ဥသျှစ်၊ သံပရာ၊ ရှောက်နှင့် မျိုးရင်းတူဖြစ်၍ ရူတေစီအီး မျိုးရင်းတွင် ပါဝင်သည်။ ရုက္ခဗေဒ အမည်ဖြင့် ဖာရိုနီးယား အဲလီဖန်တမ်ဟု ခေါ် သည်။ မူလပေါက်ရောက်ရာဒေသသည် အိန္ဒိယနိုင်ငံ တောင်ပိုင်းနှင့် သီဟိုဠ်ကျွန်းဖြစ်သည်။ မြန်မာနိုင်ငံ မိုးပါးရေရှား ရပ်ဝန်းဒေသ မြေပြန့်များတွင် သီးစားပင် အဖြစ် စိုက်ပျိုးကြလေသည်။

သီးပင်သည် သနပ်ခါးပင်နှင့် ဆင်ဆင်တူသော်လည်း ပို၍ အပင်ကြီးကာ အပင်အနေအထား ပို၍ လှပပြီးလျှင် ပို၍ စိမ်းလမ်းစိုပြေသည်။ ရွက်ကြွေပင်မျိုးဖြစ်ပြီးလျှင် ပင်စည် ဖြောင့်မတ်သည်။ သို့သော် ပင်စည်သည် တို၍ လုံးပတ်နှစ်ပေမှ လေးပေရှိတတ်ပြီးလျှင် ပေ၃၀ မှ ၄၀ အထိ မြင့်သည်။ သီးပင်၏ ကိုင်းတက်များတွင် ဆူးများရှိသည်။

သီးရွက်သည် ရွက်လက်တခုတွင် ဆိုင်၍ထွက်ကြသော ရွက်မြွှာတစုံမှ လေးစုံအထိ ပါရှိတတ်၍ ထိပ်ရွက်မြွှာလည်း ပါရှိသော ရွက်ပေါင်းဖြစ်သည်။ (ရွက်မြွှာမစုံဟု ခေါ် သည်။) ရွက်လက်ရိုးတံ၏ ဘေးတဖက်တချက်တွင် သေးငယ်သော အရွက်ကလေးများနှင့်တူသည့် လည်ထောင်များ ပါရှိသည်။ ရွက်လက်များသည် တရွက်ကျော်တရွက် ကျလွှဲ၍ ထွက်လေသည်။

သီးပွင့်၏ ပွင့်ချပ်သည် သေးငယ်၍ အသွားငါးခု ရှိသည်။ ပွင့်ဖတ်သည် များသောအားဖြင့် ငါးခုရှိပြီးလျှင် ပြည့်နေသည့် ဝတ်ဆံတံ ၁၁ ခုမှ ၁၂ ခုအထိ ရှိသည်။ ထိုအပွင့်များသည် ကိုင်းများမှဖြစ်စေ၊ အရွက်ရင်းမှဖြစ်စေ ပွင့်သော ပန်းခိုင်များ ဖြစ်ကြလေသည်။

သီးသီးသည် ဥသျှစ်သီးအငယ်စား၊ သို့မဟုတ် ပန်းသီး အရွယ်ခန့်ရှိသည်။ ဥသျှစ်သီးကဲ့သို့ပင် အခွံမာ၍ ထူသည်။ အသီး၏အတွင်းသားသည် ပျော့၍ အစေ့များသည်။ အစေ့များသည် ရှည်လျားလျား ပုံသဏ္ဌာန်ရှိသည်။ အသီး၏ အသားကို စားသုံးကြသည်။ သီးသီးကို အသီးသေး၍ ချဉ်သောအမျိုး၊ အသီးကြီး၍ ချိုသောအမျိုးဟူ၍ နှစ်မျိုး ခွဲခြားနိုင်သည်။ အသီးမှည့်မှည့်အတွင်းမှ အသားနှစ်ကို ထန်းလျက်၊ သကြားတို့နှင့်ရော၍ စားသုံးကြသည်။ ဥသျှစ်ဖျော်ရည်ကဲ့သို့ အဖျော်ယမကာပြုလုပ်၍လည်း သုံးဆောင်ကြသည်။ ကောင်းစွာ မမှည့်သေးသော အသီးရင့်ရင့်များကို ဆားရေစိမ်၍ရင်း၊ ချဉ်တနိး ပြုလုပ်၍ရင်း စားသုံးကြသည်။



သီးပင်၏ အသီးနှင့်အရွက်များ

သီးသီးသည် လန်းဆန်းသော သတ္တိရှိသဖြင့် အားဆေး အဖြစ်လည်း အသုံး ပြုကြသည်။ မမှည့်သေးသော အသီးကို ချုပ်ဆေးအဖြစ်၎င်း၊ နှလုံးဆေးအဖြစ်၎င်း အသုံး ဝင်သည်ဟု ယူဆကြသည်။ ဝမ်းကိုက် ဝမ်းလျှောရောဂါ များအတွက် ဥသျှစ်သီးအစား သီးသီးကို အသုံးပြုနိုင် သည်ဟု ဆိုသည်။ သွားဖုံးရောဂါ၊ လည်ချောင်းရောဂါ များအတွက်လည်း သီးသီးသည် ဆေးဖက်ဝင်သည်ဟု ဆိုကြလေသည်။

သီးသီး၏အတွင်းသားနှင့်အစေ့များ၏အာဟာရဓာတ် များကို စစ်ဆေးကြည့်သည့်အခါ မီလီဂရမ်အားဖြင့် ရေ ၆၉.၅၊ ပရိုတိန်း ၇.၃၊ သတ္တုဓာတ် ၁.၉၊ အမျှင်များ ၅.၂၊ ကာဗွန်ဟိုက်ဒရိတ် သကြား ၁၅.၅၊ ထုံး ၀.၁၃၊ဖော့စဖော ရပ် ၀.၁၁၊ သံ ၀.၆၊ ဗီတာမင် စီ ၂.၀ ပါရှိသည်ကို တွေ့ရ သည်။ အချဉ်ဓာတ်နှုန်းသည် မမှည့်သေးသော အသီး များတွင် ၇.၆ ရာခိုင်နှုန်းမှ အသီးမှည့်များတွင် ၂.၃ ရာခိုင် နှုန်းအထိ လျော့နည်းသွားသည်။ သီးသီးအတွင်းသားကို ကျောက်ကျော (ဂျယ်လီ)လည်း ပြုလုပ်ကြရာ ပန်းသီး ဂျယ်လီ၏ အနံ့မျိုးနှင့် တူလေသည်။

သီးပင်၏ အသားသည် မီးခိုးရောင်နု ဖြစ်သည်။ သို့သော် အဝါရောင်အထိအရောင်ကွဲပြားခြားနားသွားခြင်း လည်းရှိတတ်သည်။ အသားသေအောင် အခြောက်ခံထား ပြီးသော သီးသား ကုဗ တပေသည် ပေါင် ၅၀ အလေးချိန် စီးသည်။ အိမ်အဆောက်အအုံ၊ လှည်းထောက်စာကူ၊ ဆီ ကြိတ်ဝင်ရိုးများ ပြုလုပ်ရာတွင် သီးသားကို အသုံးပြုနိုင်၍ ဖိနပ်ပုံ၊ကလောင်တံရိုး၊ ပေတံ စသည်တို့ကိုလည်း သီးသား ဖြင့် အချို့ပြုလုပ်ကြလေသည်။

သီးပင်၏အခေါက်သည် သနပ်ခါးခေါက်နှင့်တူ၍ သနပ် ခါးခေါက်ကဲ့သို့ သွေး၍ လိမ်းကျံကြသည်။ သို့သော် သနပ် ခါးကဲ့သို့ အနံ့မွှေးခြင်း၊အသားအရေအေးမြစေခြင်း မဖြစ် ပေ။ ထို့ပြင် သီးခေါက်ကို သွေး၍ ရရှိသော အနှစ်၏ အရောင်သည် သနပ်ခါးကဲ့သို့ လှပသော အဝါရောင်မဟုတ် ပဲ ဝါညစ်ညစ် ဖြစ်လေသည်။ သီးပင်ကို မှန်ပင်၊ မဟန်ပင် ဟုလည်း ခေါ်ကြသည်။

သီးပင်သည် စင်စစ် ရာသီဥတုနှင့် မြေအမျိုးအစား ရွေးသော အပင်မျိုး မဟုတ်ချေ။ ကိုင်းဖြတ်စိုက်ခြင်း၊ ကိုင်းစည်းစိုက်ခြင်းဖြင့်လည်း ပေါက်ရောက် ရှင်သန်နိုင် လေသည်။ အိန္ဒိယနိုင်ငံတွင် လယ်ကန်သင်းများ၊ လမ်း ဘေးများတွင် အနှံ့အပြား စိုက်ပျိုးကြသည်။ ထိုနိုင်ငံတွင် သီးပင်၏ အကိုင်းအရွက်များကို ကျွဲနွားအစာအဖြစ် သုံးကြသည်။အရွက်သည် အနံ့ရှိ၍ယင်းမှနံ့သာဆီတမျိုးကို ထုတ်ယူရရှိနိုင်သည်။ ပင်စည်နှင့် အကိုင်းအခက်များမှ အစေးတမျိုးထွက်သည်။ ထိုအစေးသည် မိုးရာသီကုန်ဆုံး ချိန်တွင် ပို၍ထွက်သည်။ အစေး၏အရောင်သည် တရောင် တည်းမနေပဲ အရောင်ဖျော့ဖျော့မှစ၍ အဝါရောင် အနီ ရောင်အထိ အမျိုးမျိုးဖြစ်ပေါ်သည်။ ထိုအစေးကို ရေနှင့် ရောလျှင် အရည်ပျော်ဝင်၍ အာရဗစ် (ထနောင်းစေး) ကော်ထက်မည့်ကြောင်း တွေ့ရသည်။ ထို့ကြောင့် အာရ ဗစ်ကော် ရောင်းချသူ အချို့တို့သည် သီးအစေးကိုရောနှော ကာ မသမာ ရောင်းချခြင်းပြုတတ်သည်။ ထိုကော်ကို ဂျားဗားကျွန်း၌ မင်ပြုလုပ်ရာတွင် အသုံးပြုကြ၍ ဆိုးဆေး များတွင်လည်း ထည့်သွင်း အသုံးပြုသည်ဟု သိရှိရ လေသည်။

**သီးဖီးမြို့**။ ။သီးဖီးမြို့သည် ရှေးဂရိနိုင်ငံ သမိုင်းတွင် ထင်ရှားကျော်စောသော မြို့ကြီးတမြို့ ဖြစ်သည်။ မြို့ပြ ပုံပြင်များအရ သီးဖီးမြို့ကို ဖိနီရှန်ဘုရင် အေဂျီနော၏ သားတော် ကက်ဒမတ် ဆိုသူက ဘီစီ ၁၅၀၀ ခန့်က စတင် တည်ထောင်ခဲ့သည်ဟု ဆိုသည်။ ရှေးအခါက တံခါးခုနစ် ပေါက်ရှိသော တန်တိုင်းကာသည့် မြို့ကြီးဟု ထင်ရှားခဲ့၍ ဂရိနိုင်ငံ၏ ထိပ်သီးမြို့ကြီး ဖြစ်ခဲ့သည်ဟု ဆိုသော်လည်း ယခုအခါတွင် လူဦးရေ ၃,၅၀၀ ခန့်မျှသာ နေထိုင်သည့် သီဗေးဟု တွင်သော မြို့ငယ်ကလေးတမြို့သာ ဖြစ်သည်။

သီးဖီးမြို့သည် ဂရိနိုင်ငံအရှေ့ပိုင်း ဗီအိုးရှားနယ်၏ အလယ်တွင် တည်ရှိသည်။ ဖာဂါတောင်၏ တောင်ဖက်ရှိ



သီးဗီးမြို့တော်ဟောင်း၏ ရှုခင်းတရပ်

ကုန်းမြင့်ပေါ်၌ တည်ရှိ၍ အက်သင်းမြို့မြောက်ဖက် မိုင် ၄၀ ကွာဝေးသည်။ အက်သင်းမြို့မှ လာသည့်လမ်းနှင့် ကော်ရင့်ကွေ့မှ ယူရီပေါ့ ရေလက်ကြားသို့ ဆက်သွယ် ဖောက်လုပ်ထားသောလမ်းတို့သည် သီးဗီးမြို့ကို ဖြတ်သွားလေသည်။

သီးဗီးမြို့၏သမိုင်းသည် များသောအားဖြင့် ပုံပြင်များသဖွယ်သာ ဖြစ်သည်။ ခရစ်မပေါ်မီ နှစ်ပေါင်းများစွာမှစ၍ ဗီအိုးရှားနယ်၏ အထင်ရှားဆုံး မြို့ကြီး ဖြစ်ခဲ့သည်။ ဂရိနိုင်ငံသို့ မြောက်ပိုင်းသားများ ဝင်ရောက်တိုက်ခိုက်လာစဉ်က သီးဗီးမြို့နှင့် ယင်း၏ ပတ်ဝန်းကျင်၌ အများအပြားအခြေစိုက်နေထိုင်ခဲ့ကြ၏။ ထိုအချိန်က သီးဗီးမြို့တော်သည် တန်ခိုးကြီးခိုက်ဖြစ်၍ စစ်အင်အား တောင့်တင်းအောင်စုဆောင်းဖွဲ့စည်းကာ အခြားမြို့ကြီးများအပေါ်၌ ဩဇာအာဏာလွှမ်းမိုးရေးကို အားထုတ်ခဲ့လေသည်။ ဘီစီခြောက်ရာစုခန့်သို့ ရောက်သောအခါ သီးဗီးမြို့နှင့် အက်သင်းမြို့တို့သည် အပြိုင်ဖြစ်လာကာ တမြို့ကတမြို့ကို နှိမ်နင်းရန်ချက်ကောင်းစောင့်နေကြလေသည်။ ဘီစီ၄၇၉ ခုနှစ်တွင်ဖြစ်ပွားသော ပလာတီယာတိုက်ပွဲ၌မူ အက်သင်းတို့ အရေးသာသဖြင့် အီရန်တို့ဖက်မှ ဝင်ကူသော သီးဗီးမြို့သည် ထိပ်တန်းမြို့ကြီးအဖြစ်မှ ကျဆင်းခဲ့လေသည်။

ထိုအခါတွင် အက်သင်းတို့၏ ရန်သူများ ဖြစ်ကြသော စပါးတားတို့သည် သီးဗီးနှင့်ပူးပေါင်း၍ အားပေးကူညီခဲ့ကြသည်။ သီးဗီးအား ဗီအိုးရှားပြည်နယ်၏ မြို့တော်ကြီးအဖြစ် အသိအမှတ်ပြုလိုက်သည်။ အခြားမြို့များကို သိမ်းယူရာ၌စစ်သည်အင်အားဖြင့် ကူညီခဲ့သည်။ အက်သင်းတို့သည်လည်း မြို့ငယ်ကလေးများဖက်မှ ပါဝင်ကာ အပြင်းအထန်တိုက်ခဲ့ကြ၏။ ဤသို့လျှင် သီးဗီးနှင့်အက်သင်းတို့သည် ရန်သူကြီးများဖြစ်လာကြရာ ဘီစီ ၄၅၇ မှ ၄၄၇ ခုနှစ်အတွင်း သီးဗီးမြို့မှတပါး ဗီအိုးရှားပြည်နယ်အလုံးကို အက်သင်းတို့ နှိမ်နင်းခြေမှုန်းနိုင်ခဲ့လေသည်။ စပါးတားတို့နှင့် ခိုင်မြဲသော မဟာမိတ်အဖြစ်ဖြင့် သီးဗီးတို့ကလည်း အက်သင်းတို့အား အလျှော့ပေးသည်ဟူ၍ မရှိခဲ့ချေ။ သို့ဖြင့် ပယ်လိုပွန်နီရှင်းစစ်ပွဲကြီး ဖြစ်လာလေသည်။

ထိုစစ်ပွဲကြီးတွင် သီးဗီးတို့သည် စပါးတားတို့ဖက်မှ ဝင်ရောက်ကူညီရာ အရေးသာပြန်သဖြင့် ဘီစီ ၄၂၃ ခုနှစ်တွင် ပလာတီယာမြို့ကိုဖျက်ဆီးပစ်ခဲ့ကြသည်။ ထိုစစ်ပွဲကြီးပြီးဆုံးသွားသောအခါ အက်သင်းတို့ လုံးဝရှုံးနိမ့်သွားပြီးနောက် သီးဗီးတို့ အင်အားအကြီးဆုံးဖြစ်၍ ကျန်ရစ်သည်။ ထိုအခါတွင် ဗီအိုးရှားပြည်နယ်ရှိမြို့များကို ထိန်းသိမ်းအုပ်ချုပ်ရေးတွင် သီးဗီးနှင့် စပါးတားတို့ တဖက်တလမ်းစီ ဖြစ်ကာ မဟာမိတ်ပျက်လေသည်။

သီးဗီးသည် အင်အားရှိနေခိုက် ဖြစ်၍ စပါးတားတို့က လည်း စိုးရိမ်မကင်းဖြစ်ရကား သီးဗီးကိုနှိမ်နင်းရန် အား ထုတ်ကြသည်။ နောက်ဆုံးတွင် သီးဗီးနှင့်စပါးတားတို့သည် ကော်ရင့်သီယန်စစ်ပွဲ၌ ယှဉ်ပြိုင်တိုက်ကြလေသည်။ ပဌမ တွင် စပါးတားတို့အရေးသာမည့် ဟန်ရှိခဲ့သော်လည်းသီးဗီး ခေါင်းဆောင်ကောင်းဖြစ်သော အီပါမီနွန်းဒတ်နှင့် ပယ်လို ပီဒတ်တို့၏အစွမ်းကြောင့် စပါးတားကို ဘီစီ ၃၇၁ ခုတွင် အပြီးသတ် နှိမ်နင်းနိုင်ကြလေသည်။

ဤသို့ ရန်အပေါင်းကို နှိမ်နင်းပြီးသောအခါ သီးဗီးသည် တန်ခိုးအကြီးဆုံးဖြစ်လာသော်လည်း အင်ပါယာနိုင်ငံတခု တည်ဆောက်ရန်ကား မတတ်နိုင်ခဲ့ချေ။ အဘယ်ကြောင့် ဆိုသော် သီးဗီး၏အကာအကွယ်ကို ရရှိထားသော မြို့အချို့ သည် အမြဲတစေ သီးဗီးတို့၏လက်အောက်၌မနေချင်သော ကြောင့်ဖြစ်လေသည်။ ထိုအခါတွင် အက်သင်းတို့အင်အား ပြန်လည်စုဆောင်းခွင့် ရလာပြန်ပြီးလျှင် သီးဗီးနှင့် ရန်စ ဟောင်းလည်းပြန်၍အသစ်ဖြစ်ခဲ့ပြန်သည်။ ထိုသို့ရှိစဉ် ဘီစီ ၃၆၂ ခုနှစ်၌ သီးဗီး ခေါင်းဆောင်ကြီး အီပါမီနွန်းဒတ်ကွယ် လွန်လေရာ သီးဗီးမှာ တအားယယ်ရှိမက တန်ခိုးအာဏာ များလည်း ယုတ်လျော့၍ ဒုတိယတန်းမြို့ကြီးအဖြစ်သို့ သက်ဆင်းခဲ့ရလေသည်။

ဘီစီ ၃၃၈ ခုနှစ်တွင် မက်ဆီဒိုးနီးယားဘုရင် ဖိလစ်သည် ဂရိကို တိုက်ခိုက်ထိပါးလာလေသည်။ ထိုအခါ သီးဗီးသည် အက်သင်းနှင့်မဟာမိတ်ပြု၍ ဖိလစ်၏အင်အား ကြီးမားလှ သော စစ်တပ်များကို ခုခံရသည်။ သို့သော် နောက်ဆုံးတွင် ရှာရိုးနီးယားတိုက်ပွဲ၌ အရေးရှုံးနိမ့်သဖြင့် ဖိလစ်၏လက် အောက်ခံအဖြစ်သို့ ရောက်ခဲ့လေသည်။ ထိုနောက် မက်ဆီ ဒိုးနီးယား အင်ပါယာ၏ ကေရာဇ် အက်လက်ဇန္ဒာဘုရင် လက်ထက်တွင် သီးဗီးတို့ပုန်ကန်ကြသောကြောင့် သီးဗီးမြို့ သည် ချေမှုန်းဖျက်ဆီးခြင်းခံခဲ့ရလေ၏။ ထိုအခါမှစ၍ သီး ဗီးမြို့ကြီးသည် မြို့ငယ်ကလေးအဖြစ် ကျရောက်ခဲ့သည်မှာ ယနေ့တိုင် ဖြစ်လေသည်။

သီးဗီးမြို့ဟူသောအမည်ဖြင့် ထင်ရှားသော အခြားရှေး ဟောင်းမြို့ကြီးတမြို့ကား အီဂျစ်နိုင်ငံ နိုင်းမြစ်ကမ်းပေါ်၌ ကိုင်ရိုမြို့၏ အရှေ့တောင်ဖက် မိုင် ၄၅၀ အကွာတွင် တည်ရှိ ခဲ့သည်။ ယခု ထိုမြို့ဟောင်းနေရာတွင် ကားနက်နှင့် လတ် ဇောရွာကြီး နှစ်ရွာတည်ရှိသည်။ သီးဗီးမြို့သည် ဘီစီ ၁၅၈၀ မှ ၁၀၉၀ ပြည့်နှစ်များအတွင်းက အီဂျစ်နိုင်ငံ စစ်သူကြီး ခေတ်၌ မြို့တော်ကြီးဖြစ်၍ အရောင်းအဝယ်ဖက်၌၎င်း၊ အဆောက်အအုံများဖက်၌၎င်း ကြီးကျယ် စည်ကားခဲ့လေ သည်။ ယခုအခါ ခမ်းနားကြီးကျယ်သော အဆောက်အအုံ ပျက်တို့ဖြင့် ပြည့်နှက်လျက်ရှိသည်။ ယင်းတို့အနက် ကာနက် ရှိ ခန်းဆောင်ကြီးနှင့် လတ်ဇောရှိ အမွန် တန်ဆောင်း တို့ကို ဆက်ထားသော စဖင့်ရုပ်တန်းကြီးကား ကျော်ကြား လှသည်။

**သုဓမ္မစာရီဖြတ်ထုံး။** ။ဖြတ်ထုံးဟူသည်မှာ တရားမျှတ စွာ စီရင်ဆုံးဖြတ်သည့် ဆုံးဖြတ်ပုံ၊ ဆုံးဖြတ်နည်း အစဉ် အလာကို ဆိုခြင်းဖြစ်ပေသည်။ သုဓမ္မစာရီ ဖြတ်ထုံးသည် ကောင်းသော တရားစောင့်ထိန်းသူဟူ၍ အဓိပ္ပါယ်ရသည့် အနွတ္ထအမည်ဖြင့် ခေါ်တွင်ထားသော တရားဆုံးဖြတ်သူ မင်းသမီး၏အမည်ကို အစွဲပြု ခေါ်ထားခြင်း ဖြစ်လေသည်။ မြန်မာစကားပြေကျမ်းများတွင် ဖြတ်ထုံးကျမ်း အများ အပြားရှိခဲ့ရာ အခြားဖြတ်ထုံးများမှာ မင်း၊ တရားသူကြီး၊ ခုံမင်း၊ ပညာရှိ၊ ဘုရားအလောင်းတော်၊ ရသေ့ စသော အမျိုးသား ပညာရှိတို့၏ အမှု စီရင် ဆုံးဖြတ်ပုံများသာ ဖြစ်ပြီးလျှင် အမျိုးသမီးပညာရှိတို့၏ဖြတ်ထုံးဟူ၍ ဇလာက ဒေဝီဖြတ်ထုံးနှင့် သုဓမ္မစာရီဖြတ်ထုံး နှစ်စောင်သာလျှင် ရှိခဲ့လေသည်။

ဇလာကဒေဝီသည် မဟောသဓ ဇာတ်တော်လာ စူဠနီ ဖြဟ္မဒတ်မင်း၏ မယ်တော် ပညာရှိမိဖုရားကြီး ဖြစ်သည်။ သုဓမ္မစာရီ မင်းသမီးသည်မူ အခြားဖြတ်ထုံးကျမ်းများ ကဲ့သို့ အမည်အစွဲတပ်၍ခေါ်ဝေါ်ထားသူသည် လူလောက၌ တကယ်ရှိခဲ့သော ပုဂ္ဂိုလ်တဦးတယောက် မဟုတ်ပဲ၊ ယင်း ဖြတ်ထုံးကို ရေးသားပြုစုသူ၏ စိတ်ကူးဉာဏ် ကွန့်မြူးချက် ထဲမှ မင်းသမီးတပါးသာလျှင် ဖြစ်ချေသည်။ မင်းသမီး၏ ဖြတ်ထုံးတခုဖြစ်သော မြွေပါ၊ ကြောင်၊ ခွေးတို့၏ ပုံပြင် အရ ဆိုလျှင် ထိုပုံပြင်ဝတ္ထုသည် ကမ္ဘာဦးခေတ်က ဂဟေ ပတိဝေသာပြည်၌ ဖြစ်ပျက်ခဲ့၍ တရားမျှတသော အဆုံးအ ဖြတ်ကို ခံယူလိုသော ထိုတိရစ္ဆာန်သုံးဦးတို့သည် ကမ္ဘောဇ တိုင်း၊ မဒ္ဒရာဇ်ပြည်၊မဒ္ဒရာဇ်မင်း၏ သမီးတော် သုဓမ္မစာရီ မင်းသမီးထံသို့ သွားရောက်ပြီးလျှင် အဆုံးအဖြတ် ခံယူကြ သည်ဟုသာ ဖော်ပြထားလေသည်။

သုဓမ္မစာရီ၏ ဖြတ်ထုံးကို ပြုစုရေးသားသူ၏ အမည် နာမ၊ ဂုဏ်ထူးဝိသေသတို့ကို အမှတ်အသား မတွေ့ရချေ။ သို့ရာတွင် ထိုပုဂ္ဂိုလ်သည် ရာဇဝင်၊ ဇာတ်နိပါတ်၊ ပုရာဏ်ကျမ်းတို့အပြင် ရာဇသတ်၊ ဓမ္မသတ်တို့၌လည်း အခြေခံရှိပြီးလျှင် ဉာဏ်ထက်မြက်သူ ပုဂ္ဂိုလ်တဦးဖြစ် ကြောင်းကိုမူ တွက်ဆရနိုင်ပေသည်။ စကားပြေအရေး အသားလည်းရှင်းလင်းပြတ်သား ပြေပြစ်၍ သုံးနှုန်းထား သောထီးသုံးနန်းသုံးစကားများကို ထောက်ထား၍ ကုန်း ဘောင်ခေတ်အလယ်ပိုင်း၌ ရေးသားခဲ့သော စကားပြေ လက်ရာတခု ဟုဆိုနိုင်၍ ထိုထက်စောသော လက်ရာဟူ၍ ကား မယူဆနိုင်ချေ။

သုဓမ္မစာရီ ဖြတ်ထုံးကျမ်းကို "သုဓမ္မစာရီဖြတ်ထုံး"၊

"သုဝဏ္ဏစာရီမင်းသမီးဖြတ်ထုံး"၊ "သုဝဏ္ဏစာရီဝမ္မသတ်" စသည်ဖြင့်အမည်အမျိုးမျိုးဖြင့်ရှေးနှစ်ပေါင်းများစွာကပင် အကြိမ်ကြိမ်ပုံနှိပ်ထုတ်ဝေခဲ့သည်။ ထိုစာအုပ်များတွင်သုဝဏ္ဏစာရီ၏ဖြတ်ထုံး ဝတ္ထုပုံပြင်၊ သုံးရပ်ပါရှိရာ

၁။ မိမိတို့၏ အရှင်သခင် သဌေးသား၏ အကျိုးကို စောင့်သိကာ တနည်းတဖုံ စီစဉ်ဆောင်ရွက်ပေးကြသော မြွေပါ၊ ကြောင်၊ ခွေးတို့အနက် မည်သူသည် ရှေးဦးစွာ စားကောင်းသည်ဟု ပေးသော အဆုံးအဖြတ်။

၂။ သဌေးသမီး တဦးတည်းကို ချစ်မြတ်နိုးကြသော သဌေးသားသုံးဦးအား မည်သူရထိုက်သည်ဟု ပေးသော အဆုံးအဖြတ်။

၃။ သူကြွယ်သားတယောက်တည်းကိုချစ်မြတ်နိုးကြသော မယားသုံးယောက်အနက် မည်သည့်မယားက ရထိုက်သည်ဟု ပေးသော အဆုံးအဖြတ်တို့ ဖြစ်လေသည်။

ယင်းသုံးပုဒ်၌သာလျှင် သုဝဏ္ဏစာရီမင်းသမီး ကိုယ်တိုင် အဆုံးအဖြတ် ပေးပုံများပါရှိ၍ စိတ်ကူးဉာဏ် အယူအဆကို နှိုးဆွပေးပြီးလျှင် ဉာဏ်စေစားထားချက်များ ပါဝင်သည်။ သာမန်အားဖြင့် အဆုံးအဖြတ် မလွယ်နိုင်အောင် လျှဉ်းပါးဖွယ် ပြဿနာအမျိုးမျိုးကို အံ့ဖွဲ့ ဖန်တီးပေးပြီးမှ နောက်ဆုံးတွင် ခိုင်လုံသောအကျိုးအကြောင်းပြချက်များဖြင့် အခက်အခဲ အထုံးအဖွဲ့များကို ဖြတ်တောက် ဖြေရှင်းပြသည်။ အဆုံးအဖြတ်ပြုရသည့် ပြဿနာများတွင် ဖြစ်နိုင်စကောင်းသော အဆုံးအဖြတ် သုံးနည်းသုံးသွယ်ကို ဖန်တီးလမ်းဖွင့်ပေးထားသော်လည်း အမှန်တရားသည် တခုသာဖြစ်အပ်သည့်အားလျော်စွာ ဖြစ်သင့်ဖြစ်ထိုက်သော အဆုံးအဖြတ်ကို အကြောင်းယုတ္တိခိုင်လုံစွာဖြင့် စီရင်ချမှတ်ပေးထားလေသည်။ ထို့ကြောင့် အချို့က သုဝဏ္ဏစာရီ ဝမ္မသတ်ဟူ၍ပင် ခြီးမြှင့်ခေါ်ဝေါ်ကြခြင်းဖြစ်လေသည်။

ယင်းသို့ ဉာဏ်စေစားရသော ပုံပြင်များသည် မဟောသဓ ဇာတ်တော်နှင့် အချို့သော ဇာတ်နိပါတ်တော်များတွင်လည်း အများအပြားပါရှိရာ ဉာဏ်ကစားလိုသူ၊ တရားဥပဒေအရာတွင် လေးနက်စွာ ဆင်ခြင်တွေးတောလိုသူ၊ စဉ်းစားဉာဏ် ရင့်သန်လိုသူတို့ နှစ်ခြိုက်သော ပုံပြင်များဖြစ်ကြသည်။ သက္ကတပူရာဏ်ကျမ်းများတွင်လည်း ထိုပုံပြင်မျိုး ပါရှိရာ ကြမ္မာဒိုက်ဝတ္ထုသည် ထိုသို့သောဉာဏ်စေစားရသည့်ဝတ္ထုပုံပြင်မျိုး ဖြစ်လေသည်။ ကာလပေါ်စုံထောက်ဝတ္ထုများသည်ယင်းသို့သော ဉာဏ်စေစားရသည့် ရှေးဝတ္ထုပုံပြင်တို့ကို အခြေခံခဲ့သည်ဆိုက မှားအံ့မထင်။ သုဝဏ္ဏစာရီဝတ္ထုပုံပြင်ကဲ့သို့ ဉာဏ်စေစားမှုဖြစ်စေသော ပုံပြင်ဝတ္ထုမျိုးသည် မြန်မာစာပေတွင်ရှေးအခါကပင်ရှိခဲ့ခြင်းသည် မြန်မာတို့အဖို့ ဂုဏ်ယူဖွယ်တရပ်ဖြစ်ပေသည်။

သုဝဏ္ဏစာရီဖြတ်ထုံးကျမ်းတွင် မင်းသမီး၏ ဖြတ်ထုံးသုံးရပ်သာ ပါရှိ၍ သခ်ာၤစာပေးဝတ္ထုများနှင့် အဆုံးအဖြတ်ပေး အခြားဝတ္ထုပုံပြင်များ အပါအဝင် ဝတ္ထုပုံပြင် ၁၃ ပုဒ်နှင့် စုပေါင်းရိုက်နှိပ်ထားသည်။ ယင်းသည် အကြောင်းရှိပေသည်။ သုဝဏ္ဏစာရီ၏ဖြတ်ထုံးသုံးရပ်နှင့် ကျန်ဝတ္ထုပုံပြင် ၁၃ ပုဒ်တို့တွင် ဆက်သွယ်ရေးဟန်များ၊ စကားလုံးဝေါဟာရတို့ကို တိုတိုကျဉ်းကျဉ်းသုံးနှုန်းထားပုံ၊ ဝါကျဖြတ်တောက်ရေးသားပုံတို့သည် ပုဂ္ဂိုလ်တဦးတယောက်တည်း၏လက်ရာကဲ့သို့ ပြေပြေညီညီရှိနေသည်။ သို့သော် ဇာတ်လမ်းဇာတ်အိမ်ဖွဲ့မှု၊ ပြဿနာအဆုံးအဖြတ်တင်ပြပုံတို့မှာကား သုဝဏ္ဏစာရီမင်းသမီး၏ဖြတ်ထုံးများကဲ့သို့ မခိုင်လုံပဲ၊ လျော့လျည်းလျည်းရှိသည်။ ကျန်ပြဿနာဝတ္ထုအသီးအသီးတွင် ဖြတ်ထုံးစီရင်သူသည် တထုံးခြားစီ ဖြစ်၍ တိမ်ငုပ်သော ပြဿနာကို ဖော်ထုတ်သော ဝတ္ထုသုံးပုဒ်သာလျှင်ပါရှိရာ မဟောသဓဇာတ်တော်လာ ပြဿနာဖြေခန်းများကို မှီငြမ်းပြုကာ ရေးသားထားသည်။ ကျန်ပုံပြင်များမှာ ဖြတ်ထုံးပုံပြင်များ သဘောထက် တရားပြသော သဘော၊ ဆုံးမဩဝါဒပေးသော သဘောများ ပါရှိပြီးလျှင် ဇာတ်နိပါတ်တော်များနှင့်မဟာရာဇဝင်ကြီးကို မှီငြမ်းပြုထားသော ဝတ္ထုပုံပြင်များ ဖြစ်ကြသည်။

မည်သို့ပင်ဖြစ်စေကာမူ ထိုဖြတ်ထုံးကျမ်းပါ ဝတ္ထုပုံပြင် ၁၆ ပုဒ်စလုံးသည် အရေးအသား တပြေးညီညာရှိ၍ ပုဂ္ဂိုလ်တဦးတည်း၏ လက်ရာဟု ခန့်မှန်းရပြီးလျှင် ထိုစာပေစုတစုလုံးကို တစုတပေါင်းတည်း စတင်တွေ့ရှိခဲ့ကြသဖြင့် တအုပ်တည်းပေါင်းဖွဲ့၍ ပုံနှိပ်ခြင်းဖြစ်တန်ရာပေသည်။

သုဝဏ္ဏစာရီဖြတ်ထုံးကျမ်းသည် အခက်အခဲ ဖြေရှင်းပုံရှင်းလင်းပြတ်သားမှု၊ ဇာတ်အိမ်ဇာတ်ကွက် ခိုင်ခန့်မှုစသည့် အင်္ဂါရပ်များနှင့် ပြည့်စုံကောင်းမွန်ခြင်းကြောင့် ထိုကျမ်းကို ၁၂၄၃ ခုနှစ်တွင် မစ္စတာစီ၊ ဂျေ၊ ဗန်ဒေါင်ဆိုသူက အင်္ဂလိပ်ဘာသာသို့ပြန်ဆိုပြီးလျှင် ရန်ကုန်မြို့တွင်ပင် ပုံနှိပ်ထုတ်ဝေခဲ့ရာ စာမျက်နှာ ဂ၉ ရှိသည်။ တဖန် ၁၂၆၃ ခုနှစ်တွင် ပြင်သစ်လူမျိုး မက်ဆယာ လူဝီ ဗော့ဆီယွန်က ပြင်သစ်ဘာသာသို့ ပြန်ဆိုပြီးလျှင် ပြင်သစ်နိုင်ငံပါရစ်မြို့၌ ပုံနှိပ်ထုတ်ဝေရာ စာမျက်နှာ ၁၄၅ ရှိလေသည်။

ဤသို့ အင်္ဂလိပ်ဘာသာ၊ ပြင်သစ်ဘာသာတို့ကိုပြန်ဆိုရလောက်အောင် ထင်ရှားခဲ့သော သုဝဏ္ဏစာရီဖြတ်ထုံး သုံးရပ်အနက် ဖြတ်ထုံးတရပ်ကို အကဲခတ် လေ့လာ နိုင်ရန် အောက်တွင် အတိုချုံးဖော်ပြလိုက်ပေသည်။

သုဝဏ္ဏစာရီမင်းသမီးနေထိုင်ရာ ကမ္ဘောဇတိုင်း၌ပင် အလွန်ချစ်ခင်ရင်းနှီးသောသဌေးလေးဦးရှိသည်။ သဌေးသုံးဦးတွင် သားတယောက်စီ အသီးအသီးရှိကြ၍ ကျန်တဦးမှာ ကြန်အင်လက္ခဏာနှင့် ပြည့်စုံသော သမီးတယောက်ရှိလေသည်။ သဌေးသားသုံးဦးလုံးကပင် ထိုသတို့သမီးယ်

**အား** အလိုရှိကြသည်။ သင်္ဘေးသားတဦးက အကယ်၍ **ထို**သတို့သမီးငယ်သည် အသက် ၁၅ နှစ်မပြည့်မီ ကွယ်လွန်ခဲ့**သော်** မိမိကိုယ်တိုင် အလောင်းကို ထမ်း၍ သင်္ဂြိုဟ်ပါမည် **ဟူ**၍ရှင်း၊ အခြားတဦးက ထိုသို့ သတို့သမီးငယ် လွန်ခဲ့ပါမူ **အရိုး**ကို မိမိလွယ်ပါမည်ဟူ၍ရှင်း၊ တတိယသင်္ဘေးသားကမူ **ယင်း**သို့ ဖြစ်ငြားအံ့၊ လုပ်တိုင်း (သင်းချိုင်း) တွင် မိမိ **စောင့်**ပါမည် ဟူ၍ရှင်း အသီးအသီး ကတိကဝတ်ပြုကာ သင်္ဘေးသမီးငယ်အား တောင်းခံကြလေသည်။

အကြောင်းတိုက်ဆိုင်လာသဖြင့် သင်္ဘေးသမီးငယ်သည် ၁၅ နှစ်မပြည့်မီပင် နာ၍လွန်လေသည်။ ထိုအခါ သင်္ဘေး**သား**သုံးဦးတို့သည် မိမိတို့ထားရှိသည့် ကတိအတိုင်း အသီး**အသီး**ဆောင်ရွက်ကြသည်။ ဟိမဝန္တာမှလာသော ဇော်ဂျီ**ရသေ့**တပါးသည် အရိုးစု လွယ်သူနှင့် တွေ့လျှင် အကျိုး**အကြောင်း** စုံစမ်းသိရှိရသည့်အခါ ကရုဏာသက်ဝင်သဖြင့် **မိမိ**၏အတတ်ဖြင့် အရိုးစုကို ပြန်၍အသက်ဝင်စေရာ ရှေး**က**အတိုင်း ကြန်အင်လက္ခဏာနှင့် ပြည့်စုံသော သတို့သမီး**ယ**် ပြန်၍ ဖြစ်လာသည်။ ထိုအခါ သင်္ဘေးသားသုံးဦးတို့သည် သူရထိုက်၊ ငါရထိုက်ဟူ၍ အငြင်းပွားကြရာ နောက်ဆုံးတွင် သုဓမ္မစာရီမင်းသမီး၏ အဆုံးအဖြတ်ကို နာခံရန် သဘောတူကြလေသည်။

ထိုအခါ မင်းသမီး၏အဆုံးအဖြတ်မှာ သင်္ဘေးသားသုံးဦးလုံးပင် မိမိတို့၏ ကတိအတိုင်း ညီညွတ်စွာစောင့်ထိန်းဆောင်ရွက်ခဲ့ကြသည်မှန်သော်လည်း လုပ်တိုင်းတွင် စောင့်ရသူသည် အမျိုး ခုနစ်ဆက်တိုင်အောင် အယုတ်အညံ့ခံ၍ စောင့်ရသူ ဖြစ်သည်။ ထိုပြင် သူစောင့်သည့် အခိုက်တွင်ပင် သတို့သမီးငယ် ပြန်၍ အသက်ဝင်ခဲ့လေရာ၊ သေနေစဉ်အတွင်းကပင် အတူနေခဲ့သူ ဖြစ်၍ အသက်ပြန်ဝင်သည့်အခါလည်း ထိုသူပင် အတူနေထိုက်သဖြင့် တတိယသင်္ဘေးသားသည် သတို့သမီးငယ်ကို ရယူစေဟု အဆုံးအဖြတ်ပေးလေသည်။

**သုဓမ္မဝတီမြို့။** ။သထုံမြို့ — ရှ။

**သုဓမ္မာဂိုဏ်း။** ။ဗုဒ္ဓသာသနာဝင် (မြန်မာနိုင်ငံ)—ရှ။

# ရွှေထွက်သောမြေ

**မြန်မာတို့သည် ရှေးသထုံပြည်ကို သုဝဏ္ဏဘူမိဟု ယူဆခဲ့ကြသည်။ အိန္ဒိယ ရှေးဟောင်းကျမ်းများအလိုအရမူ ထိုထက်ကျယ်ဝန်းသော ဒေသဟု ဆိုကြသည်။ သုဝဏ္ဏဘူမိသည် မည်သည့် ဒေသဖြစ်သင့်ကြောင်း အကြောင်းပြချက်၊ ယူဆချက်များနှင့်တကွ တင်ပြထားသည်။**

**သုဝဏ္ဏဘူမိ။** ။ သုဝဏ္ဏဘူမိ ဟူသည် သုဝဏ္ဏ=ရွှေ၊ **ဘူမိ**=မြေ၊ နှစ်ရပ်ပေါင်းသော် ရွှေထွက်သောမြေဟု **အဓိပ္ပါယ်**ရသည်။ မြန်မာတို့အလိုအရမူ သုဝဏ္ဏဘူမိသည် **ရှေး**သထုံပြည်ကိုခေါ်ဝေါ်ခြင်းဟု ယူဆကြသည်။ အိန္ဒိယ **ရှေး**ဟောင်းကျမ်းတို့တွင် ဖော်ပြပါရှိသော သုဝဏ္ဏဘူမိသည် ထိုထက် ကျယ်ဝန်းသော ဒေသဖြစ်သည်။ ဇာတကကျမ်း**များ**၊ဗရိဟတ်ကထာကျမ်းများ၊ကထာကောသျကျမ်းများ**တွင်**ဖော်ပြပါရှိသောသုဝဏ္ဏဘူမိသည် မြန်မာနိုင်ငံအောက်ပိုင်း ရှေးရာမညတိုင်းနှင့် တနင်္သာရီကျွန်းဆွယ် အပါအဝင် **မလ္လာ**ယုကျွန်းဆွယ်၊ ယိုးဒယား၊ ကမ္ဘောဒီးယား၊ လော (လာအို) တို့ပါဝင်သော အင်ဒိုချိုင်းနားကျွန်းဆွယ်၊ ဆူမ**တြား**ကျွန်း၊ ဂျားဗားကျွန်း၊ ဗော်နီယိုကျွန်းတို့ပါဝင်သည့် **တခွင်**တပြင်ကြီးကို သုဝဏ္ဏဘူမိ ဟု ခေါ်ဆိုကြောင်း ယူဆ**ရသည်**။ သုဝဏ္ဏဘူမိကို သုဝဏ္ဏဒီပ ဟုလည်း ခေါ်ဆိုကြ**လေသည်**။

မြန်မာတို့က ရှေးသထုံပြည်ကို သုဝဏ္ဏဘူမိ ဟု ခေါ်ဆို**ခြင်း**၏ အထောက်အထားမှာ ဓမ္မစေတီမင်းကြီး ရေးထိုးခဲ့**သော** ကလျာဏီ ကျောက်စာအရ ဖြစ်သည်။ ထိုကျောက်**စာ**အရ သုဝဏ္ဏဘူမိ ဟူသော သထုံပြည်သည် ယခုသထုံခရိုင်၊ ဘီးလင်းမြို့နယ်၊တောင်စွန်းရဲစခန်းအပိုင်ရှိ ကေလာသ တောင်ခြေရင်းတွင် ရှိသော အရက်သည်မရွာ တဝိုက်တွင် တည်ရှိခဲ့လေသည်။ မင်းနေပြည်တော်အဖြစ် ထားရှိသော သုဝဏ္ဏဘူမိမြို့၏ အရှေ့ထက်ဝက်သည် တောင်စောင်း၌ ရှိသည်။ အနောက်ထက်ဝက်သည် မြေညီ၌ ရှိသည်။ ဟံသာဝတီပဲခူး၌ ဓမ္မစေတီမင်းကြီး မင်းပြုသည့် အချိန်တွင် ထိုမြို့ကို ဂေါဠမတ္တိကာနဂရ (တိုက်ဂလာ—တိုက်ကုလား) ဟု ခေါ်ဝေါ်ကြောင်း သိရသည်။ ယင်းသို့ ခေါ်ဝေါ်ခြင်းမှာ ဂေါဠသည် အိန္ဒိယနိုင်ငံ ယခုဗင်္ဂလားပြည်နယ်အောက်ပိုင်းကို ခေါ်ဆိုခြင်းဖြစ်၍ ဂေါဠ မှ ဂလ၊ ဂလ မှ ဂလာသို့ အဆင့်ဆင့် အသံပြောင်းလာပြီးလျှင် ထိုဒေသရှိ လူတို့၏ အိမ်ကဲ့သို့ မြေတိုက်အိမ်များ ရှိသောကြောင့် ဂလာတိုက်မှ တိုက်ဂလာဟု အမည်ဖြစ်ပေါ်လာသည် ဆိုလေသည်။ ဂလာကို နောင်အခါ ကုလား ဟု ခေါ်တွင်လာကြပြန်ရာ တိုက်ဂလာသည် တိုက်ကုလားဖြစ်လာပြန်လေသည်။

ကလျာဏီ ကျောက်စာတွင် ရာမည ဒေသ၏ ဗုဒ္ဓသာသနာ့ သမိုင်း အကျဉ်းကိုလည်း ဖော်ပြထားပြီးလျှင် ရှင်သောဏနှင့်ရှင်ဥတ္တရ မထေရ်မြတ်နှစ်ပါးတို့အမှူးပြုလျက်

ထိုဒေသသို့ သာသနာပြု ကြွလာပုံများလည်း ပါရှိသည်။ (ဗုဒ္ဓသာသနာဝင်မြန်မာနိုင်ငံ—လည်းရှု။) အရှင်နှစ်ပါးတို့ ကြွရောက်လာချိန်တွင် သုဝဏ္ဏဘူမိတိုင်း၌ သီရိမာသောက အမည်ရှိသော မင်းသည် စိုးမိုးအုပ်ချုပ်လျက် ရှိသည်။ အရှင်မြတ်တို့သည် မင်းအိမ်၌ ဖွားလေတိုင်းသော သူငယ်ကို အမြဲမပြတ် လာရောက်စားလေ့ရှိသော ရက္ခိုက် ဘီလူးမ အား နှိမ်နင်း အောင်မြင်သည့် အထိမ်းအမှတ်အဖြစ် ထို အရပ်နေ လူတို့သည် အရှင်မြတ်တို့က ဘီလူးမအားချောက် လှန့် နှင်ပစ်ရန် ဖန်ဆင်းပြသော ဦးခေါင်းတခု၊ ကိုယ်နှစ်ခု ရှိသည့် ခြင်္သေ့ရုပ်သဏ္ဌာန်ကို ကျောက်ရုပ် ထုလုပ်ပြီး လျှင် မြို့၏အရှေ့မြောက်ထောင့် တောင်ထိပ်တွင် ထားခဲ့ကြ ရာ ဓမ္မစေတီမင်း၏ လက်ထက်တိုင်အောင် ထင်ရှားရှိသေး သည်။ ထိုပြင် ထိုရုပ်ပုံသဏ္ဌာန်ကို ထန်းရွက် စသည်တို့၌ ရေး၍ ဖွားစ သူငယ်တို့၏ ဦးခေါင်းပေါ်တွင် တင်စေကာ ရက္ခိုက်ဘီလူးတို့မှ အရံအတားပြုလေ့ရှိသော အစဉ်အလာ ဓလေ့ထုံးစံကိုလည်း ဓမ္မစေတီမင်းကြီးက ကျောက်စာတွင် ဖော်ပြခဲ့လေသည်။

ကေလာသတောင်ခြေရှိ အရက်သည်မရွာတွင် ယခုရှိ သော မြသိန်းတန်ဘုရား၏ ရင်ပြင်ပေါ်တွင် ကျောက်စာ တိုင်ကြီးတခု ရှိခဲ့ရာ၊ ၁၈၇၃ ခုနှစ်ခန့်ကပင် ထိုနေရာက ရွှေပြောင်း သယ်ယူလာပြီးလျှင် ယခုအခါ ရန်ကုန်တက္က သိုလ် စာကြည့်တိုက် အတွင်းတွင် စိုက်ထူထားခဲ့သည်။ ထိုကျောက်စာတိုင်ကြီးတွင် အလွန် ရှေးကျသော မွန်ဘာ သာဖြင့် ရေးထိုးထားသည်။ ကျောက်စာတိုင်၌ ဖော်ပြ ပါရှိသော အကြောင်းအချက်တို့မှာ ပုဂံပြည့်ရှင် ကျန်စစ် မင်းကြီးသည် ပျက်စီးယိုယွင်းနေသော ကျိုက်တလင် ဘုရား တော်ရှိသည့် စေတီကိုပြန်လည် ပြုပြင် ကောင်းမှုပြုသည့် အကြောင်း ပါရှိသည်။ ထိုကြောင့် မြသိန်းတန်စေတီသည် ကျောက်စာတွင် ပါသော ကျိုက်တလင် စေတီပင် ဖြစ် သည်ဟု ယူဆရသည်။ ကျောက်စာတွင် ကျန်စစ်မင်းကြီး သည် ထိုစေတီကို သက္ကရာဇ် ၄၆၀ ပြည့်နှစ်တွင် ပြန်လည် ပြုပြင်ကြောင်း ပါရှိလေရာ၊ ထိုစေတီတော်သည် ထိုသက္က ရာဇ်တွင် ပျက်စီးယိုယွင်းလျက်ရှိသည်ဟူသော အချက်ကို ထောက်ထား၍ ထိုနှစ်ထက် အလွန် ရှေးကျသောအခါက တည်ထားခဲ့ခြင်း ဖြစ်ပေမည်။ ထိုကြောင့် ထိုဒေသသည် မြန်မာနိုင်ငံ၌ဗုဒ္ဓသာသနာအလွန်စောစွာ ရောက်ရှိခဲ့သော ဒေသတရပ်ဖြစ်ကြောင်းကား ယုံမှားဖွယ်ရာမရှိချေ။

အိန္ဒိယ ကျမ်းဂန်များအရ ရွှေထွက်သည် ဆိုသော သုဝဏ္ဏဘူမိသို့ အလွန်ရှေးကျသော ကာလကပင် အိန္ဒိယ အမျိုးသားတို့သည် ပင်လယ်သမုဒ္ဒရာကို စွန့်စွန့်စားစား ဖြတ်ကျော် လာရောက်ကြသည်။ မြန်မာလူမျိုးတို့ ကြား ဘူးနာဝ ရှိကြသော မဟာဇနက ဇာတ်တော်တွင် ဇနက မင်းသားသည် ကုန်သွယ်အုံသောငှာ သမုဒ္ဒရာကို ဖြတ်၍ သုဝဏ္ဏဘူမိသို့ သင်္ဘောလွှင့်ခဲ့ကြောင်း ပါရှိလေသည်။ အိန္ဒိ ယကျမ်းများ အလာ သုဝဏ္ဏဘူမိသည် ရွှေထွက်သည်သာ မက နောင်အခါ ဟင်းခတ် အမွှေးအကြိုင်များလည်း ထွက်ရှိသောကြောင့် ခရစ် ရှစ်ရာစု၊ ကိုးရာစုနှစ်များတွင် အာရပ်ကုန်သည်များသည်၎င်း၊ ၁၅ ရာစု၊ ၁၆ ရာစုနှစ် များတွင် ဥရောပနိုင်ငံသားများသည်၎င်း သုဝဏ္ဏဘူမိသို့ ခရီးလမ်းပေါက်ခဲ့ကြလေသည်။

တောင်ပေါက်ဆရာတော် ရေးသားပြုစုသော ဗုဒ္ဓသာ သနိက ပဋ္ဌဝိဝင်ကျမ်း၌မူ သုဝဏ္ဏဘူမိတိုင်း အကြောင်းကို ဤသို့ဖော်ပြထားလေသည်။

သုဝဏ္ဏဘူမိသည်တိုင်း၏အမည်ဖြစ်၍ကျမ်းဂန်စကားကို အရင်းထားရသော် သုဝဏ္ဏဘူမိ ဖြစ်ထိုက်သော လက္ခဏာ များမှာ မဟာဇနက ဇာတကအဋ္ဌကထာ အရ (၁)ဝင်္ဂေါ ပ သာဂရ ခေါ် ဗင်္ဂလားပင်လယ်မှ အရှေ့ဖက်၌ တည်ရှိခြင်း၊ (၂) တာမလိတ္တိ သင်္ဘောဆိပ်မှ ယူဇနာ ၇၀၀ ဝေးကွာခြင်း၊ (၃) ပါရာဇိကဏ် အဋ္ဌကထာ၊ မဟာဗောဓိဝင် အဋ္ဌကထာ များအရ ကုန်းမြေမဟုတ်၊ ရေပတ်လည်ဝိုင်းလျက်ရှိသော ကျွန်းဖြစ်ခြင်း၊ (၄) လှေသင်္ဘောလမ်း ရေကြောင်း လေ ကြောင်းသင့်၍ အသွားအလာများရာဌာနဖြစ်ခြင်း၊ (၅) ရှေးဟောင်းသာသန အဆောက်အအုံများ ယခုတိုင်ရှိနေ ခြင်းတို့ဖြစ်သည်။

ထိုလက္ခဏာများအရ ရှေးသထုံပြည်သည် ဗင်္ဂလားပင် လယ်အော်၏ အရှေ့ဖက်၌ရှိခြင်း၊ အိန္ဒိယမှ လှေသင်္ဘော ရေကြောင်း လေကြောင်း သင့်၍ ကူးလူးဆက်ဆံမှုများ သော ဌာန ဖြစ်ခြင်း၊ ရှေးသာသန အဆောက်အအုံများ ယခုတိုင် ရှိသေးခြင်းဟူသော လက္ခဏာရပ်များနှင့် ပြည့်စုံ သည်ကား မှန်ပေသည်။ သို့သော် တာမလိတ္တိ သင်္ဘော ဆိပ်မှ ယူဇနာ ၇၀၀ ကွာဝေးခြင်း၊ ကျွန်းမြေပေါ်၌ တည် ရှိခြင်းစသော လက္ခဏာရပ်များနှင့် မပြည့်စုံသောကြောင့် အထက်ပါလက္ခဏာရပ်များ အပြည့်အစုံ ညီညွတ်ခြင်း မရှိ ဟု ဖော်ပြထားလေသည်။

ထိုပဋ္ဌဝိဝင်ကျမ်းအရမူ ရှင်သောဏနှင့်ရှင်ဥတ္တရ မထေရ် နှစ်ပါးအမှူးရှိသော ရဟန္တာ ငါးပါးတို့ သာသနာပြု ကြွ ရောက်ရာ မူလ သုဝဏ္ဏဘူမိသည် ယခု ဆူမတြား ဟုခေါ် ဆိုကြသော သုမာတြာကျွန်းဟု အခိုင်အမာ ဆိုလေသည်။ သုမာတြာကျွန်းသည် အထက်တွင် ဖော်ပြခဲ့သော လက္ခ ဏာရပ်များနှင့် အလုံးစုံညီညွတ်သည်။ ကျမ်းဂန်တို့၌ ပြဆို သော တာမလိတ္တိ သင်္ဘောဆိပ်နှင့် သုမာတြာကျွန်းသည် ယူဇနာ ၇၀၀ နီးပါး ကွာဝေးသည်။ ထိုစဉ်က ပင်လယ် သင်္ဘောဆိပ်မြို့ဖြစ်သော တာမလိတ္တိသည် ယခု ကာလ ကတ္တားမြို့၏ အနောက်တောင်ထောင့် မိုင်၂၀ အကွာတွင်

ရှိသည်။ တယူဇနာသည် အင်္ဂလိပ်မိုင်အားဖြင့် တွက်မူ ရေလမ်းခရီးဖြစ်၍ တာတထောင်ကို တယူဇနာနည်းဖြင့် ယူသော် ယူဇနာ ၇၀၀ သည် မိုင်ပေါင်း ၁,၃၉၂½ ဖြစ်သည်။ ကာလကတ္တားနှင့် သုမာတြာကျွန်းသည် အင်္ဂလိပ် မိုင် ၁,၆၃၀ ဖြစ်၍ ယင်း၌ တာမလိတ္တိနှင့် ကာလကတ္တားအကွာ အဝေး (မိုင် ၂၃၀) ကို နုတ်လျှင် မိုင် ၁,၄၀၀ ကျန်ရာ၊ ယင်းသည် တာမလိတ္တိနှင့် သုမာတြာ အကွာအဝေးမိုင် ဖြစ်သည်။ ထိုကြောင့် မိုင်ပေါင်း ၁,၃၉၂½•(ယူဇနာ၇၀၀) နှင့် မိုင် ၁,၄၀၀ သည် နီးစပ်ပေသည်။ သထုံပြည်နှင့်တာမ လိတ္တိ အကွာအဝေးမှာ ယူဇနာ ၇၀၀ (၁,၃၉၂½) မိုင်တွင် မိုင် ၄၀၀ ခန့် လျော့နေသည်။ ထိုအချက်ကို ထောက်ထား ၍ မူလ သုဝဏ္ဏဘူမိသည် သုမာတြာကျွန်းသာလျှင် ဖြစ်နိုင် စရာရှိကြောင်း ဆိုလေသည်။

အခြား အကြောင်းပြချက် တခုမှာလည်း သုဝဏ္ဏဘူမိ သည် ကျွန်းဖြစ်သည်ဟုဆိုထားခြင်းပေတည်း။ ထိုကြောင့် သုဝဏ္ဏဒီပ ဟုလည်း ခေါ် ဆိုကြခြင်းဖြစ်ပေမည်။ သုမာ တြာသည် ကျွန်းဖြစ်ကြောင်းကား အထူး ဖော်ပြဖွယ်ရာ မလိုချေ။ သထုံပြည်မှုကား ကြီးမား ရှည်လျားသော တောင်တန်းကြီး အနီး ကုန်းမြေပေါ်၌ တည်ရှိလေသည်။

ထိုပြင် အိန္ဒိယ ကမ္ဘည်း ကျောက်စာ ဌာနမှ ထုတ်ဝေ သော နလန္ဒာ တက္ကသိုလ်ကြီးအကြောင်း စာအုပ်၌ နလန္ဒာ ကျောင်းတိုက်ကြီး တူးဖော်ရာမှ တွေ့ရှိရသော ကြေး ပရပိုက် တဆူ၌ ပါရှိသည်ကို ဤသို့ ဖော်ပြထားသည်။ သုဝဏ္ဏဒီပခေါ် သုမာတြာကျွန်း ဘုရင် သီရိဗလပုတ္တဒေဝ သည် နလန္ဒာ ကျောင်းတော်ကြီး တည်တံ့ရေး အတွက် နှင့် အစောင့် အရှောက် အထောက်အပံ့ ဖြစ်စေရန်ငှင်း၊ ယင်း ကျောင်းတော်ကြီး၌ လာရောက် သိတင်းသုံးကြကုန် သော ရဟန်းတော်များ ချမ်းသာစေရန် အလို့ငှါငှင်း သီရိ နဂရ ခေါ် ပါဠလိပုတ်ခရိုင် နိုင်ငံအတွင်း ရာဇဂဟ ဂယာ စီရင်စုတွင် ရှိသော ရွာငါးရွာကို ပေးလှူသည်။ ထိုပေး လှူသော ရွာငါးရွာအဖို့ မိမိပိုင်ဆိုင်သော သုဝဏ္ဏဘူမိ၌ ရှိသည့် ငါးရွာကို အစားထိုး၍ ထိုအခါက ပါဠလိပုတ် ခရိုင် နိုင်ငံကို စိုးပိုင်သူ ဒေဝပါလမင်းအား ဖလှယ်ပေး ကြောင်းပါရှိလေသည်။ ယင်းသို့သောအကြောင်းကြောင်း တို့ကိုထောက်ရှု၍ ရှင်သောဏ ရှင်ဥတ္တရ မထေရ်သူမြတ်တို့ ပဌမဆုံးရောက်ရှိရာ မူလ သုဝဏ္ဏဘူမိသည် သုမာတြာကျွန်း သာလျှင် ဖြစ်ဆင့်သည်ဟု ဆိုထားလေသည်။ သို့သော် သထုံ ပြည်သည် ယူဇနာ ၇၀၀ အကွာအဝေး အချက်၊ ကျွန်း မဟုတ်သည့် အချက်များမှတပါး သုဝဏ္ဏဘူမိ၏ အခြား လက္ခဏာရပ်များနှင့်မူ ညီညွတ်သောကြောင့် မူလသုဝဏ္ဏ ဘူမိအဖြစ် မယူနိုင်စေကာမူ သုဝဏ္ဏဘူမိတိုင်း၌ ပါဝင်သော ဒေသတခုအဖြစ် မှတ်ယူသင့်ပေသည်။

သာသနိကကျမ်း၊ လောကီယကျမ်းများ၌ ပါရှိသော သုဝဏ္ဏဘူမိ၊ သုဝဏ္ဏဘောမ၊ သုဝဏ္ဏဒီပဟူသော အမည်များ သည် ဗင်္ဂလားအော် အရှေ့ဖက်ရှိ တိုင်းပြည် နယ်ပယ်များ နှင့် သက်ဆိုင်ကြောင်း သိရသည်။ ရာမယနကျမ်းတွင် လည်း သီတာမိဖုရားကို ရှာဖွေရန် သုဂြိတ် အမှုးရှိသော ရာမမင်း၏ မျောက်စစ်သည်တော်များသည် ယာဝဒီပ ခေါ် ဇာဝရ(ဂျာဗား) ကျွန်းသို့ငှင်း၊ ရွှေမြေ၊ ရွှေချောင်း၊ ရွှေ တောင်အပေါင်းတို့ဖြင့် တန်ဆာဆင်သော သုဝဏ္ဏရူပက အမည်ရှိသော သုဝဏ္ဏဘူမိသို့ငှင်း သွားရောက်ကြကြောင်း ပါရှိသည်။ ထိုကျမ်းလာ စကားအရ သုဝဏ္ဏဘူမိတိုင်း၌ ပါဝင်သင့်သော နယ်မြေဒေသများကား ဂျားဗား၊ ဆူမ တြား၊ ဗာလီ၊ ဗော်နီယို၊ သိဿပူရခေါ် စင်္ကာပူ၊ မလ္လာယု ခေါ် မလေးရှား၊ ယိုးဒယား၊ ကမ္ဗောဒီးယားနှင့် တနင်္သာရီ စသော မြန်မာနိုင်ငံ အောက်ပိုင်းတို့ ဖြစ်သင့်သည်ဟု ဆို လေသည်။

ဗုဒ္ဓသာသနာသည် မူလသုဝဏ္ဏဘူမိ ခေါ် သုမာတြာ ကျွန်းမှ သုဝဏ္ဏဘူမိတိုင်း၌ ပါဝင်သော ဌာနများသို့ ပျံ့နှံ့ခဲ့ သည်။ သို့သော် သာသနာ အရှည် တည်တံ့ရေးသည် ပရိ ယတ္တိသာသနာ အဆက်အသွယ်ရမှ ဖြစ်နိုင်ပေသည်။မြန်မာ နိုင်ငံအောက်ပိုင်း ရာမညတိုင်းနှင့်ယိုးဒယား၊ကမ္ဗောဒီးယား လာနိုင်ငံတို့သည် သီဟိုဠ်ကျွန်းမှသော်ငှင်း အိန္ဒိယတောင် ပိုင်းမှသော်ငှင်း ပိဋကတ်စာပေနှင့်တကွ သာသနာရေး အဆက်အသွယ်များ ရရှိခဲ့၍ သာသနာထွန်းကားပြီးလျှင် အရှည်တည်တံ့နိုင်ခဲ့လေသည်။ ယင်းတို့မှတပါးသော ဒေသ များ၌မူ ထိုသို့သော သာသနာရေး အဆက်အသွယ်များ နည်းပါးခဲ့ဟန်တူသဖြင့် ဗုဒ္ဓသာသနာအရောင်အဝါမှေးမှိန် ပျောက်ကွယ်ခဲ့ရလေသည်။ ခရစ် ခြောက်ရာစု၊ခုနစ်ရာစုနှစ် ခန့်က သုမာတြာကျွန်း(ဆူမတြားကျွန်း)နှင့် နီးကပ်သော ဂျားဗားကျွန်း၊ ဗော်နီယိုကျွန်းများ၌ သာသနာစည်ပင် ထွန်းကား၍ ရဟန်းသံဃာများ သိတင်းသုံးခဲ့ဘူးကြောင်း အထောက်အထားများ တွေ့ရှိရသည်။ မြန်မာသက္ကရာဇ် ၅၅၀ ပြည့်နှစ် နရပတိစည်သူမင်း လက်ထက်တွင် သီဟိုဠ် ကျွန်းမှ ဆပ္ပဋမထေရ်နှင့်အတူ လိုက်ပါလာသော ရာဟုလာ မထေရ်သည် မလ္လာယုကျွန်းသို့ ကြွရောက်၍ ကျွန်းပိုင်ရှင် ဘုရင်အား ဋီကာနှင့်တကွ ခုဒ္ဒသိက္ခာကျမ်းစာကို သင်ကြား ပို့ချကြောင်း ကလျာဏီ ကျောက်စာ၌ ဖော်ပြ ထား လေသည်။

**သုဝဏ္ဏသာမ ဇာတ်တော်။** ။ သုဝဏ္ဏသာမ ဇာတ် တော်သည် ဂေါတမ မြတ်စွာဘုရား ဟောကြားတော်မူ သော ဇာတ်တော်ကြီးဆယ်ဖွဲ့တွင် တတိယ ဇာတ်တော် ဖြစ်၍ မူရင်း ပါဠိတော်၌ ဂါထာပေါင်း ၁၂၅ ဂါထာ

ဖြင့် ဖွဲ့ဆိုထားလေသည်။ မြတ်စွာဘုရားသည် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်တွင် သီတင်းသုံး နေတော်မူခိုက် တနေ့သ၌ မိဖကိုလုပ်ကျွေးသော ရဟန်းအား အကြောင်း ပြု၍ ဟောကြားတော်မူသည်။ ထိုရဟန်းကား သာဝတ္ထိပြည် ၌ ၁၈ ကုဋေကြွယ်ဝသော သဌေးမျိုးမှ တယောက်တည်း သော သားဖြစ်၏။ သဌေးသားသည် ရဟန်းပြုလိုလှ သဖြင့် အမိအဖတို့အား မရအရ တောင်းပန်၍ ရဟန်းပြု သော် မိခင်ဖခင်တို့သည် အထီးကျန်ဖြစ်ကာ ဆင်းရဲလေ ကုန်သဖြင့် ရဟန်းဘဝနှင့်ပင် ပြန်၍ မိဖတို့အား လုပ်ကျွေး လျက် နေ၏။ ယင်းသို့ နေသည်ကို လူတို့သဒ္ဓါ၍လှူသော ပစ္စည်းဖြင့် လူတို့အား ပေးကမ်း ကျွေးမွေးကြောင်းဖြင့် ရဟန်းတို့က ကဲ့ရဲ့ကာ ဘုရားသခင်အား လျှောက်ကြားလေ ရာ မြတ်စွာဘုရားက "ဤရဟန်း၏ အားထုတ်ပြုမူမှုသည် ကောင်းစွ" ဟု သာဓုသုံးကြိမ်ခေါ်ပြီးနောက် 'ချစ်သား သင်သည် ငါဘုရား၏ သွားသောခရီး၌ တည်သော သူပေ တည်း။ ငါဘုရားသည်လည်း ရှေးသောအခါက အကျင့်ကို ကျင့်ယင်း အမိအဖတို့ကို လုပ်ကျွေးဘူး၏' ဟုဆိုကာ ရဟန်း တို့ တောင်းပန်သဖြင့် သုဝဏ္ဏသာမဇာတ်တော်ကို ဟော ကြားတော်မူသည်။

ထိုဇာတ်တော်ကို ဘကြီးတော်ဘုရားလက်ထက် သက္က ရာဇ် ၁၁၈၈ ခု နယုန်လပြည့်ကျော် ၈ ရက်နေ့တွင် စာရေး တော်ကြီးမောင်သာ တောင်းပန်သဖြင့် မင်းဘူးမြို့ ရန်ကုန် တိုက်ကျောင်းတွင် စာပေပို့ချနေသော ရန်ကုန်ဆရာတော် ၏တပည့် ပညာတိက္ခမထေရ်သည် ပါဠိတော်မှ မြန်မာသို့ အနက်ပြန်၍ ပြုစုတော်မူသည်။

သုဝဏ္ဏသာမဇာတ်တော်ကား ဤသို့တည်း။ ရှေးလွန် လေပြီးသောအခါဗာရာဏသီပြည်အနီး၌ နေသာဒရါမခေါ် ရွာတရွာတွင် တံငါသည်ကြီးတဦးရှိသည်။ ထိုရွာ၏ တဖက် ကမ်းတွင်လည်း တံငါသည်ကြီးတဦးရှိလေရာ ထိုသူနှစ်ဦး တို့သည် မိတ်ဆွေဖြစ်ကြသည့်အလျောက် မိမိတို့၏သားနှင့် သမီးတို့ကို လက်ထပ်ထိမ်းမြားရန် ကတိထားကြလေသည်။ တယောက်သော အမျိုးသားအိမ်၌ ဒုကူလ သတို့သားကို ဖွားမြင်၍ တယောက်သောအမျိုးသားအိမ်၌ ပါရိကာသတို့ သမီးကို ဖွားမြင်သည်။ ထိုသူတို့ အရွယ်ရောက်သောအခါ ကတိရှိသည့်အတိုင်း ထိမ်းမြားပေးကြသည်။ သို့ရာတွင် ဒုကူလနှင့် ပါရိကာတို့သည် ဗြဟ္မာ့ပြည်မှ လာသည်ဖြစ်၍ အိမ်ထောင်မှုကို မနှစ်သက်ကြသောကြောင့် နှစ်ဦးသား တိုင်ပင်၍ တောထွက်ကြလေသည်။ သူတို့သည် ဟိမဝန္တာ တော မိဂသမ္မတာမြစ်သို့ ဆန်တက်သွားကြသော် သိကြား မင်းဖန်ဆင်းသော ကျောင်းသင်္ခမ်းကို တွေ့၍ ပျော်မွေ့စွာ ရသေ့ပြုကာနေကြသည်။

တနေ့သ၌ သိကြားမင်းသည် ဒုကူလ ပါရိကာတို့၌ အန္တရာယ်ဖြစ်လတ္တံ့သည်ကို မြင်၍ အလုပ်အကျွေးဖြစ်စေ မည့်သားသမီးရစေရန် ရှာသူတို့အမှုကိုပြုဖို့တိုက်တွန်းသည်။ ထိုအခါ ဒုကူလက ငြင်းပယ်သဖြင့် ပါရိကာ၏ချက်ကိုလက် ဖြင့် သုံးသပ်ရန် တောင်းပန်ပြီးနောက် တာဝတိံသာသို့ ပြန်လေသည်။

ထိုနောက်သော် ရွှေအဆင်းရှိသည့် သုဝဏ္ဏသာမ မည် သော သားတပါးကို ဖွားမြင်သည်။ သားငယ်သည် အရွယ် ရောက်လတ်သော် တနေ့သ၌ ဒုကူလနှင့် ပါရိကာတို့သည် သစ်သီးရှာသွားစဉ် မိုးရွာသဖြင့် တောင်ပို့ထက်၌ ခိုနား နေခိုက် တောင်ပို့၌နေသော မြွေသည် နှာခေါင်းလေဖြင့် မှုတ်သောကြောင့် အဆိပ်သင့်၍ ရသေ့နှစ်ပါးစလုံး မျက်စိ ကွယ်လေသည်။ သားသုဝဏ္ဏသာမသည် မိဖတို့ပြန်ချိန်၌ မပြန်လာသဖြင့် လိုက်ပါသွားရာ မိဖတို့ မျက်စိကွယ် ကြောင်းသိရ၍ မိမိကလုပ်ကျွေးပြုစုပါမည့်အကြောင်းပြော ပြကာ ခေါ်ဆောင်လာခဲ့သည်။

ထိုနေ့မှ စ၍ သုဝဏ္ဏသာမသည် တောထဲတွင် သစ်သီး များ ရှာဖွေ၍ငင်း၊ မြစ်မှရေကို ခပ်ယူ၍ငင်း မိဖတို့အား လုပ်ကျွေးပြုစုလေသည်။

ထိုအခါ ဗာရာဏသီပြည်၌ ပီဠိယက္ခမင်းသည် မင်းပြု၏။ ထိုမင်းသည် သမင်သားကို နှစ်သက်သဖြင့် မယ်တော်ကို ထီးနန်းအပ်ကာ တောသို့သွား၍ သမင်များကို ပစ်ခတ်စား သောက်နေသည်။ တနေ့သ၌ သုဝဏ္ဏသာမသည် ယဉ်ပါး သော သမင်များနှင့်အတူ မြစ်ဆိပ်သို့ ရေခပ်လာ၏။ ထိုအခါ ပီဠိယက္ခမင်းကြီးသည် သမင်များကို ပစ်ခတ်ရန် စောင့်ဆိုင်းနေစဉ် သမင်များကို တွေ့မြင်သည်။

ထိုအခါ မင်းကြီးသည် သုဝဏ္ဏသာမကို ရှေးကမမြင်ဘူး သဖြင့် တောအတွင်း၌ လူလော နတ်လော နဂါးလောဟု သိလိုသောကြောင့် မြားဖြင့် ပစ်လိုက်သည်။

သုဝဏ္ဏသာမသည် မြားမှန်လေသော် မိမိအား အဘယ် သူသည် မြားဖြင့် ပစ်ဘိသနည်းဟု ချိုသာစွာ မြည်တမ်းရာ မင်းကြီးသည် အနီးသို့ကပ်၍ မိမိသည် ကာသိကရာဇ်မင်း ဖြစ်ကြောင်းပြောပြ၍ သုဝဏ္ဏသာမ၏ အကြောင်းကိုလည်း မေးလေသည်။ သုဝဏ္ဏသာမသည် မိမိမှာ မျက်မမြင် မိဖ နှစ်ပါးကို ပြုစုလုပ်ကျွေးနေသူဖြစ်၍ ရေခပ်ရန်လာကြောင်း များကို ပြောပြသောအခါ မင်းကြီးသည် သူတော်ကောင်း ကို ပစ်ခတ်မိပြီဟု စိတ်မကောင်းဖြစ်ကာ သုဝဏ္ဏသာမ၏ မိဖများကို မိမိပင် လုပ်ကျွေးရစ်ပါမည်ဟု ကတိပေးပြီး လျှင် သုဝဏ္ဏသာမ မိန်းမောသည်ကို သေပြီ ထင်မှတ်၍ ဒုကူလ ပါရိကာတို့ထံသို့ အလုပ်အကျွေးပြုရန် ထွက်သွား လေသည်။

ဒုကူလနှင့် ပါရိကာတို့သည် ခြေသံကြားသည်နှင့်ပင် မိမိ တို့သားသုဝဏ္ဏသာမ မဟုတ်မှန်းကို သိရှိကာ မေးလေသော်

ပိဋ္ဌိယက္ခမင်းက အကြောင်းစုံကို ပြန်၍ပြောပြသည်။ ထိုအခါ ဒုကူလနှင့် ပါရိကာတို့သည် မိမိတို့ သားရှိရာသို့ မင်းကြီးအား လိုက်ပို့စေသည်။

ရသေ့နှစ်ပါးသည် သုဝဏ္ဏသာမ မိန်းမောနေရာသို့ရောက်သောအခါ သစ္စာမှတပါး ကိုးကွယ်ရာမရှိဟု ဆင်ခြင်လျက် မိန်းမောနေသော သုဝဏ္ဏသာမ၏ ခေါင်းရင်း ခြေရင်းတို့၌ ထိုင်၍ သုဝဏ္ဏသာမသည် ရှေး၌ ကုသိုလ်ကောင်းမှုကို ပြုခြင်း၊ ကောင်းသောအကျင့်ကို ကျင့်ခြင်း၊ ဟုတ်မှန်သောစကားကိုဆိုခြင်း၊ မိဖတို့ကို လုပ်ကျွေးခြင်း၊ အမိအဖတို့ကို ရိုသေခြင်း မိမိတို့သည် သုဝဏ္ဏသာမအား အသက်ထက်ချစ်ခြင်း၊ မိမိတို့သည် အမှတ်မထင်သော ကောင်းမှုရှိခြင်း စသော မှန်သော အကြောင်းများဖြင့် သစ္စာပြုလေသည်။ ထိုသစ္စာစကားများကြောင့် သုဝဏ္ဏသာမသည် မြားဆိပ်ပျောက်စေသတည်းဟု မိခင် ဖခင်တို့ တလှည့်စီ သစ္စာပြုကြသည်။ ရှေးဘဝက မိခင်တော်ခဲ့ဘူးသော ဗဟုသုန္ဒရီ နတ်သမီးကလည်း သုဝဏ္ဏသာမ အသက်ရှင်စေရန်အတွက် သစ္စာပြုလာသည်။

ထိုအခါ သစ္စာ၏ အာနုဘော်ကြောင့် သုဝဏ္ဏသာမသည် မြားဆိပ်ပျောက်ကင်းရုံမက မယ်တော် ခမည်းတော်တို့လည်း မျက်စိအလင်း ပြန်၍ ရကြသဖြင့် အားလုံး ဝမ်းမြောက် ဝမ်းသာ ဖြစ်ကြလေသည်။

ထိုနောက်သုဝဏ္ဏသာမသည် ပိဋ္ဌိယက္ခမင်းကြီးအား တရားဟောကြား၍ ပိဋ္ဌိယက္ခမင်းလည်း ဗာရာဏသီပြည်သို့ပြန်ပြီး ကောင်းမှုများကိုပြုကာ အသက်ထက်ဆုံးနေလေသည်။

ဇာတ်ပေါင်းသော် သုဝဏ္ဏသာမသည် မြတ်စွာဘုရား၊ ပိဋ္ဌိယက္ခမင်းကြီးသည် ညီတော်အာနန္ဒာထေရ်၊ ဗဟုသုန္ဒရီနတ်သမီးသည် ဥပ္ပလဝဏ်ထေရီ၊ သိကြားမင်းသည် အနုရုဒ္ဓါထေရ်၊ ဒုကူလသည် တတိယ မဟာသာဝက မဟာကဿပထေရ်၊ ပါရိကာသည် ဘဒ္ဒကပိလာနီထေရီ ဖြစ်လာလေသည်။

တရားတော်၏ အဆုံး၌ ပရိသတ်ပေါင်း များစွာတို့သည် အကျွတ်တရားရကြသည်။

ဤသုဝဏ္ဏသာမ ဇာတ်တော်၌ မိဖကို လုပ်ကျွေးသောရဟန်းအား အဓိကထား၍ မြတ်စွာဘုရား ဟောကြားတော်မူသည် ဖြစ်သော်လည်း သစ္စာပါရမီ ထက်မြက်မှုကိုလည်း ပြဆိုလေသည်။

**သူငယ်တန်း။** ။ကင်တာဂါတင် — ရှ။

# ကလေးသူငယ်ရောဂါကင်းဝေးနေနိုင်ရေး

**ကလေးသူငယ်တို့၏ ရောဂါဝေဒနာများကား ထွေပြား၏။ သို့သော် အနာသိက ဆေးရှိမြဲဖြစ်သည်။ ရောဂါအကဲခတ်များ၍ အနာတလွဲ ဆေးတလွဲ မဖြစ်ကြရလေအောင် ကလေးသူငယ်တို့၏ ရောဂါဖြစ်ခြင်းအကြောင်းရင်း၊ ရောဂါလက္ခဏာ၊ ရောဂါအမျိုးအမည်တို့ကို မြန်မာနည်း၊ အင်္ဂလိပ်နည်းတို့ဖြင့် ဖော်ပြထားပါသည်။**

**သူငယ်နာ။** ။သူငယ်နာဟူသည်မှာ ကလေးသူငယ်များ၌ ဖြစ်ပွားတတ်သော ရောဂါ အမျိုးမျိုးတို့ကို ရှေး မြန်မာဆေးဆရာ သမားဟောင်းကြီးများက ခေါ်ဆိုခဲ့ခြင်း ဖြစ်လေသည်။

ရှေး မြန်မာဆေးကျမ်းများတွင် သူငယ်နာရောဂါတို့ကို ကုထုံးများနှင့်တကွ အမျိုးမျိုး အပြားပြား ခွဲခြားပြထားလေသည်။ ထိုဆေးကျမ်းများ အလိုအရ ကလေးသူငယ်တို့သည် အမိဝမ်း၌ ပဋိသန္ဓေ တည်သည့်ကာလ၌ပင် ထိုပဋိသန္ဓေသည် တည်သည်လည်းရှိသည်။ မတည်သည်လည်း ရှိသည်။ သန္ဓေသားသည် အမိ၏ သွေးကိုမှီ၍ ဖြစ်ရသောကြောင့် အကယ်၍ အမိသည် သန္ဓေတည်စဉ် အနာရောဂါ ဖြစ်ခဲ့လျှင် သန္ဓေသား၌လည်း အမိနည်းတူ အနာရောဂါ စွဲကပ်သည်။ ဖွားမြင်ပြီး ၁၅ ရက်အတွင်း ကလေးသူငယ်သည် နာမကျန်းရှိခဲ့လျှင် အမိရောဂါ ပါလာခြင်းဟု ယူဆ၍ ဝမ်းစွဲ သူငယ်နာဟုခေါ်သည်။ ထိုသူငယ်နာ၏ လက္ခဏာကား သူငယ်သည် တရှုံ့ရှုံ့ငိုသည်။ နှုတ်ခမ်းမည်းသည်။ ခြေလက်ကုပ်သည်။ တကိုယ်လုံး တောင့်သည်။ ပန်းသည်။ ဟိုက်သည်။ အသံမထွက် ရှိသည်။ နို့မစို့နိုင် ရှိသည်။ ထိုဝမ်းစွဲ သူငယ်နာသည် ဖွားသည့်နေ့မှ ၁၅ ရက်အတွင်းသာ ဖြစ်တတ်သည်။ ဖျားသည်ဟူလို။

မဂဓဘာသာ ဓာတုဝိဘာဂကျမ်းကို မောင်းထောင်ဆရာတော် မြန်မာပြန်သော ဓာတုဝိဘာဂ ဒီပနီတွင် သူငယ်နာ ၁၂ မျိုးကို ပြဆိုသည်။ အကြောင်း သူငယ်နာ ခြောက်ပါးနှင့် အကျိုးသူငယ်နာ ခြောက်ပါးဟု ဆိုသည်။ တနည်းအားဖြင့်ဆိုသော် အစွဲကြောင့် ခြောက်ပါး၊ အမိနို့ရည်ကြောင့် ခြောက်ပါးဟူ၍ ဖြစ်သည်။

အစွဲကြောင့် ဖြစ်သော သူငယ်နာ ခြောက်ပါးတို့မှာ နှလုံးစွဲသူငယ်နာ၊ အသည်းစွဲသူငယ်နာ၊ အဆုတ်စွဲ သူငယ်နာ၊ အရေအသားစွဲ သူငယ်နာ၊ အရိုးစွဲသူငယ်နာ၊ အအူစွဲ သူငယ်နာဟူ၍ ဖြစ်သည်။

နှလုံးစွဲသူငယ်နာဖြစ်သည့်လက္ခဏာမှာဝမ်းရောင်သည်။ ဝမ်းကျသည်။ နို့အန်သည်။ ပြင်းစွာငိုသည်။ မျက်လုံးစုံချီ၍ နို့ကို ကိုက်သည်။ ဝမ်းတွင်းပူ၍ လေပြည့်ပြီးလျှင် လေမှုသောကြောင့် ဝမ်းကျသည်။ အထဲပူ၍ ချွေးစေးထွက်သော

ကြောင့် မနေသာ၍ ငိုသည်။ လေပူအထက်သို့ မှုတ်၍ ရင်သို့ဆိုက်သဖြင့် နို့အန်သည်။ သလိပ်ဆန်၍ နို့ကို ကိုက်တတ်သည်။ ရင်တွင် လေနှင့်သလိပ် ရှိနေသဖြင့် မျက်လုံးစိုက်ခြင်း ဖြစ်လေသည်။

အသည်းစွဲ သူငယ်နာသည် ဝမ်းမဖြောင့်၍ အထဲပူသည်။ သွေးဆင်းသည်။ မနေသာ မထိုင်သာ တညည်းညည်း ရှိတတ်သည်။

အဆုတ်စွဲသော သူငယ်နာ၏ လက္ခဏာကား ဝမ်းသွားသည်။ အတွင်းအပြင် အလွန်ပူသဖြင့် အသည်းနှလုံး၊ ကျောက်ကပ်၊ အဆုတ်တို့ကို စွတ်စိုစေလျက် ရင်ဝ၌ တည်သော လောဟိတ အသံသယနသွေးသည် ပူ၍ အသည်းစသည်တို့ကို မစိုစွတ်စေနိုင်သောကြောင့် ယင်းတို့သည် ခြောက်သွေ့၍ ရေပြင်းစွာ ငတ်သည်။ ထိုအပူကို မှီ၍ သွေး၊ လေ၊ သလိပ်တို့ စုဝေးခြင်းကြောင့် ရင်ခုန်လေသည်။

.. အရေအသား အကြောစွဲသော သူငယ်နာသည် အသားအရေ အကြော၌ အပူပြည့်ခြင်း၊ ကိုယ်သားကိုယ်ရေပြောင်းခြင်း၊ ပျော့ခြင်း၊ ညှို့ခြင်း၊ အကြောတင်ခြင်း၊ ဖောရမ်းခြင်း၊ ကြုံဆိုခြင်း လက္ခဏာများ ရှိလေသည်။

အရိုးစွဲ သူငယ်နာသည် ရင်ခုန်သည်၊ ပန်းသည်၊ ဟိုက်သည်၊ ရှိုက်သည်၊ တကိုယ်လုံး နွေးနွေးပူသည်။

အအူစွဲသော သူငယ်နာ၏ လက္ခဏာသည်ကား ရင်ပူခြင်း၊ ရင်ခုန်ခြင်း၊ ဝမ်းကျခြင်း ဖြစ်ပြီးလျှင် အသွေးအဆီကျဆင်းသည်။ ကြုံဆိုခြင်း၊ မွေးဆိုးတောင်ညစ်ရှိခြင်း၊ ခေါင်းပူခြင်း၊ ကျောပူခြင်း၊ မျက်ဝတ် ထွက်ခြင်းတို့ ဖြစ်ပေါ်လေသည်။

အမိနို့ကြောင့်ဖြစ်ရသော သူငယ်နာ ခြောက်ပါးတို့မှာ ဝမ်းစွဲသူငယ်နာ၊ နို့မြွေသူငယ်နာ၊ အဿမုက္ခိ သူငယ်နာ၊ အူလျှောက် သူငယ်နာ၊ နိုင်နန်း သူငယ်နာ၊ ကြက်ညှာ ကျဗဟုန်း သူငယ်နာတို့ဖြစ်သည်။

အမိ၏သွေးကိုမှီ၍ သန္ဓေဖြစ်ခြင်းကြောင့် ဖွားမြင်သည့်ကာလ သူငယ်နာ အဖျားအနာသည် အမိနှင့် အသွင်အလားတူ ဖြစ်သည်ကို ဝမ်းစွဲသူငယ်နာဟု ဆိုလိုသည်။ ဝမ်းစွဲသူငယ်နာရောဂါ၏ လက္ခဏာကား တရှင်ရှင်ငိုသည်။ နှုတ်ခမ်းမည်းသည်။ ခြေလက်ကုပ်သည်။ တကိုယ်လုံး တောင့်သည်။ ပန်းသည်။ ဟိုက်သည်။ အသံမထွက်ရှိသည်။ နို့မစို့နိုင်ရှိသည်။ ဤဝမ်းစွဲသူငယ်နာသည် ဖွားသည့်နေ့မှ အလွန် ၁၅ ရက်အတွင်းတွင်သာ ဖြစ်တတ်သည်။

ချဉ်သောနို့ရည်ကြောင့် ဖြစ်သော သူငယ်နာကို နို့မြွေ သူငယ်နာဟု ခေါ်သည်။ ထိုရောဂါ၏ လက္ခဏာကား ဝမ်းရောင် ဝမ်းပူ ရေငတ် တစပ်တစပ်ဝါးသည်။ မျက်လုံးစိုက်သည်။ လက်ကုပ်ကုပ်ပေါ်တတ်သည်။

ခါးသောနို့ရည်ကိုအမှီပြုသော သူငယ်နာကို အဿမုက္ခိ သူငယ်နာဟုခေါ်၍ ကိုယ်ပူရင်ဆာ ဖြစ်သည်။ ကြုံဆိုသည်။ ဝမ်းကသိကအောက် ကျတတ်သည်။ မျက်စိကြိုးတိုးကြောင်တောင် ကြည့်သည်။ လန့်ဖျပ်၍ ငိုသည်။ ညဦးတွင် ကိုယ်နွေးနွေးပူသည်။ ညဥ့်တွင် ချွေးထွက်သည်။

စပ်သော နို့ရည်ကြောင့် ဖြစ်သော သူငယ်နာကို အူလျှောက်သူငယ်နာဟု ခေါ်သည်။ ထိုရောဂါ လက္ခဏာကား ဝမ်းကျ ဝမ်းသွန်များသည်။ ဝမ်းမီးမဖြောင့်။ ခေါင်းကျောပူသည်။ ရင်ပူရင်ဆာ ရှိတတ်သည်။

ပူသောနို့ရည်ကို အမှီပြု၍ဖြစ်သော နိုင်နန်းရောဂါ၏ လက္ခဏာတို့ကား ခြေလက်အေးသည်။ ဝမ်းပူသည်။ ရင်ပူသည်။ ရင်ခုန်သည်။ ရေငတ်သည်။ ကြုံဆိုသည်။ မျက်လုံးစိုက်ခြင်း၊ ခြေလက်ကုပ်ခြင်း၊ တွန့်ခြင်းလိမ်ခြင်း ဖြစ်တတ်လေသည်။

ရောဂါများသော အမိ၏နို့ရည်ကြောင့် ကြက်ညှာကျဗဟုန်း သူငယ်နာဖြစ်တတ်သည်။ ထိုသူငယ်နာ၏ လက္ခဏာကား ဝမ်းမဖြောင့် ဝမ်းကျသည်။ ဝမ်းသွန်ဝမ်းကိုက်သည်။ တကြုံကြုံ တလှိုလှို ရှိသည်။ မွေးဆိုးတောင်ညစ် ရင်ရိုးကပ်သည်။

ထို့ပြင် ထို ၁၂ ပါးသော သူငယ်နာတို့သည် ရင့်၍အားကြီးသည်ရှိသော် ငန်းသို့ရောက်သည်။ ထိုလက္ခဏာကား အသံသြသည်။ ဝမ်းကျသည်။ ပြင်းစွာပူသည်။ ဝမ်းပြည့်သည်။ ရင်ပူသည်။ ရင်ခုန်သည်။ ရေငတ်သည်။ နှုတ်ခမ်းလျှောသွေ့သည်။ စားဘိသကဲ့သို့ တစပ်တစပ်ရှိသည်။ နှုတ်ခမ်းစောင်းရွဲ့သည်။ မျက်လုံးစိုက်သည်။ မျက်စိတကြောင်ကြောင်ရှိသည်။ သွားစေ့သည်။ ဦးခေါင်းလှုပ်သည်။ ခြေလက်တွန့်တွန့် လှုပ်သည်။ ပန်းဟိုက်သည်။

မာတြာစွဲ သူငယ်နာကုထုံး ငါးစောင်တွဲ ဆေးကျမ်းအရမူ အစွဲကြောင့်ဖြစ်သော သူငယ်နာ ၁၃ ပါး၊ သူငယ်နာကြက်ညှာ ၁၀ ပါး၊ သူငယ်နာ ကျဗဟုန်း ၁၀ ပါး၊သူငယ်နာ နို့စွဲသုံးပါး၊ သူငယ်နာငန်း ငါးပါး၊ အပုပ်သူငယ်နာ သုံးပါး၊ သူငယ်နာ ဥပဒါန် ခြောက်ပါး၊ သူငယ်နာ မြင်းသရိုက်စွဲ သုံးပါး၊ပါဒရက်သူငယ်နာ သုံးပါး၊မုက္ခိစွဲသူငယ်နာ သုံးပါး၊ မာတြာစွဲ သူငယ်နာ သုံးပါး၊ မြေစွဲသူငယ်နာဟူ၍ ပိုမိုအသေးစိတ်လျက် ပိုင်းခြား ဖော်ပြထားသည်။ ထို့ပြင် ခေတ်လေးပါးကိုစွဲ၍ ဖြစ်ပေါ်သော သူငယ်နာလေးပါးကိုလည်း ဖော်ပြထားလေသည်။

ထိုဆေးကျမ်းပါ အစွဲကြောင့် ကပ်ရောက်သော သူငယ်နာ ၁၃ ပါးတို့မှာ (၁) ပိတ်၊ ပြည်ကဲ့သို့ ဖြူဖြူရိရိဝမ်းသွားသော အူစွဲသူငယ်နာ၊ (၂) ရင်ပြည့်ခြင်း ဝမ်းလားခြင်း ဖြစ်သော အဆုတ်စွဲ သူငယ်နာ၊ (၃) ခေါင်ရေကဲ့သို့ စိမ်းစိမ်းရွှေရွှေ ဝင်းဝါဝါ ဝမ်းမျိုးသွားသော အသည်းစွဲ သူငယ်နာ၊ (၄) ပုပ်ပုပ်စပ်စပ် ကဇော်ဖတ်ကဲ့သို့ ဝမ်းလားသော

နှလုံးစွဲသူငယ်နာ၊ (၅) ချွဲချွဲပျစ်ပျစ် ကြက်ဉနှစ်ကဲ့သို့ ညို ညိုပုပ်ပုပ် ဝမ်းကျသော သည်းခြေစွဲ သူငယ်နာ၊ (၆) ဝမ်း သရိုးသရီ တညည်းညည်းနှင့် နေမထိထိုင်မထိ ဖြစ်သော သရက်ရွက်စွဲ သူငယ်နာ၊ (၇) အနည်းငယ်ဝမ်းသွား၍ မျဉ်းခွေမှိုင်တွေခြင်း ဖြစ်သော အဖျဉ်းစွဲ သူငယ်နာ၊ (၈) မျက်ရည်ယိုခြင်း၊ ခြေဖဝါးလက်ဖဝါးပူခြင်း ဖြစ်သော အရိုးစွဲ သူငယ်နာ၊ (၉) နှစ်ရက် သုံးရက် ဖျား၍ ကျောကော့နေပြီးလျှင် မအိပ်နိုင်၊ ယောကျ်ားကလေးဖြစ်မူ လက်ဝဲ မိန်းကလေးဖြစ်မူ လက်ျာ ကိုယ်တခြမ်းသေခြင်း၊ လိမ်ခြင်း၊ စောင်းခြင်း ဖြစ်သော အကြောစွဲသူငယ်နာ၊ (၁၀) ကိုယ်တနွေးနွေးနှင့် ဖျော့တော့ခြင်း၊ မျဉ်းခွေမှိုင် တွေခြင်း ဖြစ်သော အသားစွဲ သူငယ်နာ၊ (၁၁) ဝမ်း တချုပ်ချုပ်နှင့် အသားအရေပိန်သော အရေစွဲသူငယ်နာ၊ (၁၂) သလိပ်ကဲ့သို့ ရိရိချွဲချွဲဝမ်းသွားသော ရင်စွဲသူငယ်နာ၊ (၁၃) ဦးခေါင်းလေးခြင်း၊ နွေးခြင်း၊ မျက်စိမှိတ်ခြင်း၊ ခေါင်းပူခြင်းဖြစ်သော ဦးခေါင်းစွဲ သူငယ်နာတို့ဖြစ်သည်။

သူငယ်နာကြက်ညှာ ၁၀ ပါးတို့မှာ (၁) အသဲ တကြည် ကြည်ဟစ်အော်၍ ရှိတတ်သော နှလုံးစွဲကြက်ညှာ၊ (၂) ဝမ်းသွား၍ သွေးပါပြီးလျှင် တညည်းညည်း ငိုလျက် ရှိသော အသည်းစွဲ ကြက်ညှာ၊ (၃) ချက် တဖူးဖူးထ၍ နေမထိထိုင်မသာရှိသော ချက်စွဲကြက်ညှာ၊ (၄)ဝမ်းပြည့်၍ ကိုယ်ပူသော အသားစွဲကြက်ညှာ၊ (၅) ထိုင်ခြင်း၊ ထခြင်း၊ သွားခြင်း၊ ရပ်ခြင်း ကာလ၌ တချောက်ချောက်မည်သော အရိုးစွဲကြက်ညှာ၊ (၆) ခြေပစ်လက်ပစ် လန့်ဖျပ်သော မြင်းခေါင်းစွဲကြက်ညှာ၊ (၇) ရင်လုံးသော ရင်စွဲကြက်ညှာ၊ (၈) အသက်ရှူတိုင်း ရင်၌ ထွက်တုံဝင်တုံ လိုက်လှဲသော လေစွဲကြက်ညှာ၊ (၉) ရင် လည်ချောင်း၌ တစီစီမြည်နေ သော သွေးစွဲကြက်ညှာ၊ (၁၀) လည်ရင်း လည်ချောင်း၌ တချောက်ချောက် မြည်နေသော သလိပ်စွဲကြက်ညှာ တို့ဖြစ်သည်။

သူငယ်နာကျဗဟုန်း ၁၀ ပါးတို့ကား (၁) နှလုံးစွဲ ကျ ဗဟုန်းဖြစ်လျှင် ချုပ်ကိုင်မရ ပြင်းစွာငိုသည်။ (၂) အသဲစွဲ ကျဗဟုန်းဖြစ်လျှင် ငိုတုံရယ်တုံရှိသည်။ (၃) အရိုးစွဲ ကျ ဗဟုန်းဖြစ်မူ ဆီးဝမ်းမသွား၊ ဝမ်း တကျက်ကျက်ရှိသည်။ (၄) အရေစွဲ ကျဗဟုန်းဖြစ်လျှင် အလွန်မိန်းမော တွေဝေ နေတတ်သည်။ (၅) ပုဆစ်ဒူးစွဲ ကျဗဟုန်းဖြစ်မူ တမျဉ်း မျဉ်း တခွေခွေ အိပ်နေတတ်သည်။ (၆) သည်းခြေစွဲ ကျဗ ဟုန်းဖြစ်လျှင် ရေငတ်၍ အော့အန်သည်။ (၇) လေစွဲကျဗ ဟုန်းဖြစ်လျှင် သမ်းဟိုက်လိမ်ကော့စောင်းရွဲ၍တက်သည်။ (၈) သွေးတက် ကျဗဟုန်းဖြစ်လျှင် တကိုယ်လုံး အပြောက် ပြောက် အကွက်ကွက်ထွက်သည်။ (၉) လေအပုပ်တက် ကျဗဟုန်းဖြစ်မူ မျက်နှာ နှုတ်ခမ်းကစ၍ လက်ဖျား ခြေ ဖျား ညိုမဲ၍တက်သည်။ (၁၀) သွေးအပုပ်တက် ကျဗ ဟုန်းဖြစ်လျှင် တကိုယ်လုံး ညိုမည်းတက်လေသည်။

သူငယ်နာ နို့စွဲသုံးပါးကား (၁) မျက်ဖြူဆိုက်တုံ မှိတ်တုံ ဖွင့်တုံပြုလျက် ခြေလက်ကျောက်ကန်၍ ခေါင်းလှုပ်နေပြီး လျှင် လူမှန်းမသိသော် နို့မြေ့ နိုင်နင်း သူငယ်နာ၊ (၂) အမိ နို့ကို စို့သည်မှစ၍ မငိုပဲ တလူးလူးတလဲလဲ ရှိနေမှု နိုင်နင်း သူငယ်နာ၊ (၃) အမြုပ်တစီစီထွက်၍ ဝမ်းတကြုတ်ကြုတ် မြည်လျက် ဝမ်းသွားများမှု နို့ပုပ်သူငယ်နာတို့ ဖြစ်သည်။

သူငယ်နာငန်း ငါးပါးတို့မှာ (၁) တကိုယ်လုံး အေး လျက် မျက်စိ တမျဉ်းမျဉ်း တမှိန်းမှိန်းတက်သော သူငယ် နာလေငန်း၊ (၂)တကိုယ်လုံးနွေးလျက် ခြေလက်လန့်ဖြန့်၍ တက်သော သူငယ်နာ သွေးငန်း၊ (၃) ချောင်းတသက် သက်နှင့် တကိုယ်လုံး အေးတုံပူတုံရှိလျက် တမှိန်းမှိန်းတက် သော သူငယ်နာ သလိပ်ငန်း၊ (၄) တကိုယ်လုံး ပူလျက် မျက်စိ ဦးခေါင်းရမ်း၍ ကိုက်ခဲထိတ်လန့် ဖျားနာသော သူ ငယ်နာငန်းပုပ်၊ (၅) လျှင်မြန်စွာတက်၍ လူမှန်းမသိ မျက် ဖြူဆိုက်တတ်သော သူငယ်နာ အပြင်းဖမ်းငန်းတို့ဖြစ်သည်။

အပုပ်သူငယ်နာ သုံးပါးတို့မှာ (၁) ကိုယ်တနွေးနွေး နှင့် ဝမ်းပြည့်၍ အော့အန်ကာ မျဉ်းခွေ၍နေသော လေ အပုပ် သူငယ်နာ၊ (၂)အလွန်ပူ၍ ရေငတ်ပြီးလျှင် ချောင်း လည်းဆိုး အသားအရေလည်း ခြောက်ကပ်သော သလိပ် ပုပ် သူငယ်နာ၊ (၃) ခြေပစ် လက်ပစ်ဖျား၍ ခြေအေး တုံ ပူတုံရှိလျက် ခြေလက် ကိုက်တုံ ခဲတုံရှိသည့်ပြင် မျက် နှာ နှုတ်ခမ်း ရဲ့ရွဲ့သော သွေးပုပ်သူငယ်နာတို့ဖြစ်သည်။

သူငယ်နာ ဥပါဒါန်ခြောက်ပါးတို့ကား (၁) ခြေသည်း သိပ်ခြင်း၊ (၂) လက်သည်းသိပ်ခြင်း၊ (၃) လက်ကို ကုပ် ခြင်း၊ ကိုက်ခြင်း၊ (၄) မျက်စိကို နှိုက်ခြင်း၊ မျက်တောင် နှုတ်ခြင်း၊ (၅) နားကိုနှိုက်ခြင်း၊ (၆) နှာခေါင်းကို နှိုက် ခြင်းတို့ ဖြစ်သည်။

သူငယ်နာ မြင်းသရိုက်စွဲ သုံးပါးတို့မှာ (၁) တဖျပ်ဖျပ် လန့်သော သူငယ်နာ မြင်းသရိုက်၊ (၂) ဝမ်းသွား၍ ဒွါရ ထွက်သော သူငယ်နာ အူစွဲမြင်းသရိုက်၊ (၃)ညှစ်အားနှင့် တကွ ဝမ်းဝါဝါရွှေရွှေ၊ နီနီစိမ်းစိမ်း မည်းမည်းသွားသော သူငယ်နာ တြိဒေါသ မြင်းသရိုက်တို့ဖြစ်ပေသည်။

ပါဒရက် သူငယ်နာသုံးပါးတို့မှာ (၁) ဥဘယ ပါဒရက် ဖြစ်သည့်အခါ ကိုယ်တပိုင်းပူ တပိုင်းအေးပြီးလျှင် ခြေလက် အမွေး အသားအရေ ညစ်ခြင်း၊(၂) ဥဏှပါဒရက်ဖြစ်လျှင် ခြေဖဝါး လက်ဖဝါး ပူ၍ အရေအသား ခြောက်ကပ် ကြွံလို ခြင်း၊ (၃) သီတပါဒရက်ဖြစ်လျှင် ခြေဖျား လက်ဖျားက စ၍ အဆစ်အဆစ်အေးလျက် ဝမ်းစူခြင်းတို့ ဖြစ်သည်။

မုက္ခိစွဲ သူငယ်နာသုံးပါးမှာ (၁) တကိုယ်လုံး နွေး၍ ဦးခေါင်းလှုပ်ပြီးလျှင် အလွန်ငိုသော အဿမုက္ခိစွဲ သူငယ်

နာ၊ (၂)ကိုယ်ခဏပူခဏအေး၍ ဦးခေါင်းလည်းလည်လျက် အလွန်ငိုသော နာဂမုက္ခိစွဲ သူငယ်နာ၊ (၃) မျက်စိမှိတ်၍ ခါးရင်ကော့ပြီး ငိုသော ယက္ခမုက္ခိစွဲ သူငယ်နာတို့ဖြစ်သည်။

မာတြာစွဲ သူငယ်နာ သုံးပါးတို့မှာ (၁) ဒေဝမာတြာစွဲလျှင် တကိုယ်လုံး ဆတ်ဆတ်တုန်လျက် လန့်၍ ငိုသည်။ (၂) ယက္ခမာတြာစွဲလျှင် မျက်စိစိုက်လျက် ကြည့်၍ ပြင်းပြစွာ လူးလဲငိုသည်။ (၃) ပုတ္တမာတြာစွဲလျှင် ပူချမ်းမမျှ အမြုပ်တစီစီနှင့် သွားတကြိတ်ကြိတ် ပြုလျက် ဟိန်းဟဲ ညည်းညူသည်။

မြေစွဲသူငယ်နာကား ချည့်နဲ့ခြင်း၊ ခြေလက်သေခြင်း၊ ကြုံလှီခြင်း ဖြစ်သည်။ ထိုပြင် ချွေးလည်းထွက်သည်။ ဆေးပေးသော်လည်း ချမ်းသာသကဲ့သို့သာဖြစ်၏။ မချမ်းသာပဲ အဖန်တလဲလဲ နာသောကြောင့် စုန်းဖုတ်တို့ ဖမ်းစားသော သူငယ်နာဟု ဆိုကြလေသည်။

ဓာတ်လေးပါးကိုစွဲ၍ ကပ်ရောက်သော သူငယ်နာလေးမျိုးကို ဤသို့ ဖော်ပြလေသည်။

သူငယ်တို့သည် မိဿရာသီ၊ပြိဿရာသီ၊ မေထုန်ရာသီ ဟူ၍ အသီးအသီးဖြစ်ကြသော တန်ခူးလ၊ ကဆုန်လ၊ နယုန်လတို့တွင် ကိုယ်လုံးမီးအုံးသကဲ့သို့ ပူခြင်း၊ ရင်တကော့ကော့ ရှိခြင်း၊ ဝမ်း ပျော့တံမာတုံရှိခြင်း၊ ခြေဖျားလက်ဖျား ကုပ်ခြင်း၊ ရေကို အလိုရှိခြင်းဖြစ်လျှင် တေဇောဓာတ် ပျက်၍ ကပ်ရောက်သော သူငယ်နာ၏ လက္ခဏာဖြစ်သည်။

ကရကဋ်ရာသီ၊ သိဟ်ရာသီ၊ ကန်ရာသီဟု ဆိုအပ်သော ဝါဆိုလ၊ ဝါခေါင်လ၊ တော်သလင်းလတို့တွင် နေ့ညဉ့်မစဲ ဝမ်းသွားခြင်း၊ အော့အန်ခြင်း၊ ရင်ဝ လည်ချောင်းတို့၌ ချွဲသလိပ်ဖွဲ့ခြင်း၊ ဖုတ်လှိုက်ဖုတ်လှိုက် အသက်ရှူခြင်း၊ ကြွက်ထိုးခြင်းတို့အပြင် အသားအရေ ဝင်းဝင်းဝါဝါ ဖြစ်လျှင် ဝါယောဓာတ်ပျက်၍ ဖြစ်သော သူငယ်နာ၏လက္ခဏာဖြစ်သည်။

တူရာသီ၊ ဗြိစ္ဆာရာသီ၊ ဓနုရာသီဟု ဆိုအပ်သော သီတင်းကျွတ်လ၊ တန်ဆောင်မုန်းလ၊ နတ်တော်လ တို့တွင် အာခံတွင်း၌ ဖူးဖူးပေါက်ခြင်း၊ ဦးခေါင်း ချွေးစီးထွက်ခြင်း၊ ဝမ်းနံစွာ သွားခြင်း၊ အပုပ်အစပ် အစားအစာမျိုးကို အလိုရှိခြင်းတို့ဖြစ်လျှင် အာပေါဓာတ် ပျက်သော သူငယ်နာ၏ လက္ခဏာဖြစ်သည်။

မကာရ၊ ကုံ၊ မိန်ဟု ဆိုအပ်သော ရာသီများ ဖြစ်သည့် ပြာသိုလ၊ တပို့တွဲလ၊ တပေါင်းလတို့တွင် ခြေဖျား လက်ဖျား အေးတုံ ပူတုံရှိခြင်း၊ မြေကြီး စားလိုခြင်း၊ ပိုးမျိုးတို့ လှုပ်ရှားခြင်းကြောင့် အသည်းအူနာခြင်း၊ ကျောကျောက်ကုန်း ပူခြင်း၊ မျက်စိ မျက်တောင်လေး၍ တမှေးမှေး တမှိန်မှိန် ရှိခြင်း၊ မြွေကဲ့သို့ တွန့်လိမ်ခြင်းဖြစ်သော် ပထဝီဓာတ်ပျက်သော သူငယ်နာ၏ လက္ခဏာဟု သိအပ်သည်။

ယင်းသို့ဖြင့် မြန်မာဆေးကျမ်းများအလိုအရ ကလေးသူငယ်တို့တွင် ကိုယ်ခန္ဓာ အစိတ်အပိုင်းတို့ကို အစွဲပြု၍ ဖြစ်သော အနာရောဂါ၊ အမိနို့ရည်ကို အစွဲပြု၍ဖြစ်သော အနာရောဂါ၊ ဓာတ်လေးပါးပျက်၍ ဖြစ်သော အနာရောဂါ၊ အမှောင့်ပယောဂတို့ကြောင့် ဖြစ်သော အနာရောဂါ ဟူ၍ သူငယ်နာ အမျိုးမျိုးတို့ ဖြစ်သည့်အကြောင်းရင်းနှင့် လက္ခဏာတို့ကို ဖော်ပြထားလေသည်။

အနောက်နိုင်ငံ ဆေးကျမ်းများတွင် သူငယ်နာရောဂါများကို ဖော်ပြရာ၌ ရောဂါဖြစ်သည့် အကြောင်းရင်းတို့မှာ အစားအစာကို အစွဲပြု၍လည်း ဖြစ်သည်။ အနေအထိုင်ကို အစွဲပြု၍လည်း ဖြစ်သည်။ ရောဂါပိုးတို့ကြောင့်လည်း ဖြစ်သည်။ ရာသီဥတုကြောင့်လည်း ဖြစ်သည်ဟု ဆိုလေသည်။ ရောဂါဖြစ်သည့် အကြောင်းရင်းနှင့် လက္ခဏာတို့ကိုလည်း ကျယ်ကျယ်ပြန့်ပြန့် ဖော်ပြလေသည်။

မြန်မာတို့ အခေါ် အဝေါ် အားဖြင့် သူငယ်နာရှိုက်ကုန်းခေါ် သည့် ရစ်ကက်ရောဂါ ဖြစ်ပွားရခြင်းသည် အာဟာရဓာတ် နည်းပါးသော အစားအစာကြောင့်၎င်း၊ အနေ အထိုင် ကြပ်တည်းခြင်းကြောင့်၎င်း၊ နေရောင်ခြည် အရနည်းသောကြောင့်၎င်း၊ အခြားသော ကျန်းမာရေး ချွတ်ယွင်းမှုများကြောင့်၎င်း ဖြစ်ပွားသည်ဟု ဆိုသည်။ မြို့ကြီးပြကြီး၌ နေထိုင်သောကလေးများနှင့် ဆင်းရဲသော ကလေးများ၌ ဖြစ်တတ်သည်။ အထူးသဖြင့် ဆန်ထမင်းကိုချည်း ဂရုတစိုက် ကျွေးမွေးသော မြန်မာကလေးများနှင့် နို့ဆီကိုချည်း တိုက်ကျွေးသော ကလေးများတွင်လည်း ထိုရောဂါမျိုး ဖြစ်တတ်သည်ဟု ဆိုလေသည်။

ထိုရောဂါ၏ လက္ခဏာတို့ကိုလည်း ဤသို့ ဖော်ပြထားလေသည်။ ရစ်ကက်ရောဂါ၏ လက္ခဏာမှာ ကလေးသည် ညဉ့်အခါ လန့်၍ ကောင်းစွာမအိပ်၊ ခြုံစောင် အဝတ်စသည်တို့ကို ဖယ်ရှား ပစ်တတ်သည်။ ခေါင်းချွေး ထွက်သည်။ သွားပေါက်နှေးသည်။ နံရိုး၌ အဖုကလေးများ ပေါ်ခြင်း၊ တထောင်ဆစ်ရိုး လက်ဖျံရိုးများ အစွန်းထူခြင်း၊ ဝမ်းပိုက်ပွခြင်း၊ လမ်းလျှောက်သည့် အရွယ်တွင် လမ်းမလျှောက်နိုင်၊ မတ်တပ်မရပ်နိုင်ခြင်းတို့ ဖြစ်သည်။ ထိုပြင် အရိုးနှင့် စပ်လျဉ်းသော အကြောအခြင်၊ ကြွက်သား၊ ဒူး၊ အရိုးအဆစ်များ အားနည်း၍ ကောက်ကွေးနေပြီးလျှင် ကျောရိုး ကုန်းနေသည်။ ငယ်ထိပ် ပိတ်ချိန်တွင်လည်း မပိတ်၊ အရိုးရှည်များသည် ကွေးနေ၍ ရင်ညွန့်ရိုးသည် ကော့၍၎င်း၊ စုချွန်၍၎င်း ကြက်ရင်ပုံကဲ့သို့ ရှိနေတတ်လေသည်။ ထိုရောဂါရှင် ကလေးသည် အစဉ် နှာစေးခြင်း၊ ဝမ်းပျက်ခြင်းတို့လည်း ဖြစ်နေတတ်ပြီးလျှင် တက်လည်း တက်တတ်သည်။ ပေါင်ရိုး လက်ဖျံရိုးတို့ကို အနည်းငယ် ထိခိုက်မိရုံနှင့် သစ်စိမ်းကျိုး ကျိုးတတ်လေသည်။

ရစ်ကက်ရောဂါနှင့် တခါတရံ ပူးတွဲဖြစ်ပေါ်တတ်သော စကာဗီးရောဂါသည်လည်း အစားအစာကြောင့် ဖြစ်သည်။ နွားနို့၊ နို့စိမ်း၊ နို့မှုန့်ကိုချည်း တိုက်ကျွေး၍ အချဉ်ဓာတ်လျော့နည်းသော အာဟာရမျိုးချည်း စားသောက်ရသော ကလေးသူငယ်များ၌ ဖြစ်တတ်သည်။ ရောဂါဖြစ်စ၌ ကလေးသည် အသားအရေ ကြုံလှီ၍ ဖြူဖျော့ လာသည်။ တို့မိ ထိမိရုံနှင့် အထိ မခံနိုင်သကဲ့သို့ ငိုသည်။ ခြေလက်ကောင်းစွာ မလှုပ်ပဲ ငြိမ်နေတတ်သည်။ ခြေနှင့် လက်ဖျံများ ရောင်သည်။ သွားပေါက်ပြီးသော ကလေးများတွင် သွားဖုံးရောင်၍ ထိမိလျှင် သွေးထွက်သည်။ သွားဖုံးမှ သွေးယိုသဖြင့် မစားချင် မသောက်ချင်ဖြစ်ကာ ကြုံလှီလာသည်။ ကြောက်လန့်တတ်လာသည်။ ကလေး၏ ဆီးရောင်သည် မီးခိုးရောင်ကဲ့သို့ရှိ၍ တခါတရံ သွေးများပင် ပါသည်။ အချို့ ကလေးများတွင်မူ သွားဖုံး မရောင်ပဲ မျက်ခွံရောင်ပြီးလျှင် အထက် မျက်ခွံ၌ သွေးချည်များ မည်းနေသည်ကို တွေ့ရတတ်လေသည်။

မြန်မာတို့ အခေါ်အားဖြင့် သူငယ်နာ ရေငတ်ဝမ်းကျကို အနောက်နိုင်ငံ ဆေးကျမ်းများ၌ ကလေးကာလဝမ်းဟု ခေါ်သည်။ သို့သော် လူကြီးကာလဝမ်းကဲ့သို့ ကူးစက်တတ်ခြင်း မရှိချေ။ မြန်မာနိုင်ငံ၌ မိုးရာသီနှင့် နွေရာသီအခါတွင် ဖြစ်ပေါ်တတ်ရာ ထိုဆေးကျမ်းများ အလိုအရ မသင့်သော အစာကြောင့်၎င်း၊ သန်ကောင်ကြောင့်၎င်း၊ ဝမ်းပိုက် အအေးမိ၍ သော်၎င်း ဖြစ်တတ်သည်ဟု ဆိုလေသည်။

ရောဂါ၏ လက္ခဏာမှာ ကလေးသည် အခါများစွာ ဝမ်းသွားသည်။ သို့သော် ရုတ်တရက် ဒုက္ခမဖြစ်နိုင်ချေ။ ဝမ်းသွားသည့်ပြင် အန်လည်းအန်သည်။ အန်ရလွန်း၍ ငယ်ထိပ်နိမ့်သွားတတ်သည်။ အလွန်ပိန်ချုံး၍ မျက်တွင်းဟောက်ပက် ရှိနေတတ်သည်။ ရေလည်း အလွန်ငတ်သည်။ ခြေလက်တို့ အေး၍ ပြာနေသည်။ မျက်နှာလည်း ပြာနေတတ်သည်။ ဝမ်းအရောင်သည် အစ၌ ဝါသော်လည်း မကြာမီ ဆန်ဆေးရည် ထမင်းရည်ကဲ့သို့ ဖြစ်လာလေသည်။

ထိုရောဂါနှင့် ယှဉ်တွဲ၍ ကလေး၏ လျှာပေါ်၌ မက်ခရုကွက်များ ပေါ်လာတတ်သည်။ ဝမ်းလျှောနေစဉ် ချောင်းဆိုးခြင်း၊ အဆုတ်နှင့် အဆုတ်ပြွန်ရောင်နာ၊ နားကိုက်ခြင်း၊ နားပြည်ယိုခြင်း၊ ဦးနှောက်မြေးရောင်နာတို့ ဝင်လာတတ်ပြီးလျှင် ကလေးသည်လည်း တက်တတ်သည်။ ထို့ပြင် အနည်းငယ် ဖောရောင်ရာမှအစ ဆီးရောဂါလည်း ဖြစ်လာတတ်လေသည်။

သူငယ်နာ ချောင်းဆိုးရောဂါ ဖြစ်ပေါ်ရခြင်း၏ အကြောင်းရင်းကို အနောက်နိုင်ငံ ဆေးကျမ်းများက ဤသို့ဆိုသည်။

ချောင်းဆိုးခြင်းသည် လူကြီး၊ လူငယ်၊ ကလေးမရွေး ဖြစ်တတ်သော ရောဂါပေတည်း။ သို့သော် ငါးနှစ်အောက်ကလေးများသည် အများဆုံး ချောင်းဆိုးကြရာ၊ ယင်းတို့၌ ဝက်သက်နှင့် ကြက်ညှာ ရောဂါများ စွဲကပ်လေ့ ရှိသောကြောင့် ဖြစ်သည်။ ကလေးများသည် မိုးနှင့် ဆောင်းရာသီ အခါများတွင် အအေးမိတတ်သဖြင့် ပို၍ ချောင်းဆိုးကြသည်။ နေအိမ်များတွင် လေဝင်လေထွက် မကောင်းလျှင် မီးဖိုမှ မီးခိုးများ အိမ်ထဲ၌ ပြည့်နေတတ်၍လည်း ချောင်းဆိုးလေသည်။ အချို့ကလေးများသည် သွားပေါက်လျှင် ချောင်းဆိုးသည်။ ရစ်ကက်ရောဂါဖြစ်သော ကလေးများလည်း ချောင်းဆိုးတတ်သည်။ အာခေါင်အတွင်း၌ အဖုကလေးများနှင့် ပသိလုံးများ ရောင်နေလျှင်လည်း ချောင်းဆိုးတတ်လေသည်။

ကလေးများ ချောင်းဆိုးစတွင် အဖျားပါ ပါတတ်သဖြင့် အဆုတ်ရောင် ရောဂါနှင့် အထင်မှားတတ်သည်။ ကလေးသည်လည်း အသက်ရှူပြင်း၍ မျက်နှာ မှိုင်ပြီးနောက် ပြာလာတတ်သည်။ ချွဲသံများကိုလည်း ရင်အတွင်း တပြင်လုံး၌ ကြားရပြီးလျှင် အောက်ပိုင်း၌ သေးငယ်သော ချွဲသံများပင် ကြားရသည်။ သို့သော် တီးခေါက်ကြည့်လျှင် လိုင်သံသာကြားရ၍ အတွင်း၌ အဆုတ်ခဲသော အမာသံ မရှိချေ။

မြန်မာ ဆေးကျမ်းများအရ ကုတ်ဟီးချောင်းဆိုး၊ သို့မဟုတ် ကြက်ညှာ ချောင်းဆိုးဟု ခေါ်သော ရောဂါကို အင်္ဂလိပ်ဆေးကျမ်းများတွင် ကုတ်ဟီးရောဂါပိုး(ဗက်ဆီလပ် ပါတတ်စစ်)ကြောင့် ဖြစ်ပွားသည်ဟု ဆိုပြီးလျှင် ကူးစက်တတ်သော ရောဂါဟုလည်း ဖော်ပြသည်။

ထိုရောဂါသည်လည်း ကလေးများ၌ ဖြစ်ပွားတတ်၍ ဆေးကောင်းမတွေ့ပါက လွန်စွာ ကြာမြင့်မှ ပျောက်ကင်းနိုင်သည်။ ထိုရောဂါ၏ လက္ခဏာမှာ ချောင်း ဆက်ကာဆက်ကာ ဆိုးပြီးလျှင် လေရှူသွင်းသောအခါ အူသံပါ၍ အော့အန်တတ်သည်။ ဆူညံစွာ ချောင်းဆိုး၍ ထပ်ကာထပ်ကာ ညှစ်၍ ဆိုးရသောကြောင့် မျက်နှာပြာလာသည်။ မျက်ရည်နှင့် နှပ်များပါ ထွက်၍ လွန်စွာ ပင်ပန်းသည်။ လေကို ရှူသွင်းသည့်အခါ ကြက်ညှာသံ "ကူ....ကူ"ဟူသော အသံထွက်လေသည်။

ထိုချောင်းဆိုးမျိုးသည် ညဉ့် အခါ၌၎င်း၊ အမောအပန်းခံလျှင်၎င်း၊ လန့်လျှင်၎င်း အထူးပင် ဆိုးတတ်သည်။ ချောင်းဆိုးရပ်လျှင် အော့အန်သည်။ ထိုချောင်းဆိုး ရှိနေသမျှ ကလေးသည် ပိန်ချုံးနေပြီးလျှင် ချောင်းဆိုးလွန်းသဖြင့် မျက်နှာအမ်းတတ်သည်။ မျက်စိများလည်း နီနေတတ်သည်။ အာညှစ်၍ ချောင်းဆိုးရသဖြင့် နားပြည်ယိုခြင်းလည်း ဖြစ်တတ်လေသည်။ ချောင်းဆိုးရလွန်းသဖြင့်

ကလေးသည် အစာမစားနိုင်သောကြောင့် အစာမဝသော ရောဂါလည်း ဖြစ်တတ်လေသည်။ ကြက်ညှာချောင်းဆိုးသည် ရိုးရိုးချောင်းဆိုးရာမှ၎င်း၊ အဆုတ်နှင့် အဆုတ်ပြွန်ရောင်နာမှ၎င်း အ၎င်းအစပြု၍ ဖြစ်ပေါ်တတ်သည်။

ကြက်ညှာချောင်းဆိုးနှင့်တွဲ၍ ဖြစ်တတ်သောရောဂါမှာ ကလေးများအတွက် အလွန် စိုးရိမ်ဖွယ်ကောင်းသော ဆုံဆို့နာဖြစ်သည်။ ထိုရောဂါသည် လည်ချောင်းအမြှေး၌ ဗက်ဆီလီ ဒစ်ဖသီးရီးယားခေါ် ရောဂါပိုး စွဲကပ်၍ အမြှေးဖတ်ဖြူဖြူများ ပေါ်ထွက်သော လည်ချောင်းနာတမျိုးဖြစ်သည်။

ထိုရောဂါသည် ကူးစက်တတ်သည်။ ကလေးများ၌ များသောအားဖြင့် တနှစ်သားမှ ၁၅ နှစ်သားအထိ ထိုရောဂါမျိုး ဖြစ်တတ်သည်။ ထိုရောဂါကူးသည့် နေ့မှ ရောဂါပေါ်သောနေ့သည် လေးရက်မျှသာ ဖြစ်သည်။ ရောဂါစွဲသောနေရာများမှာ လျှာခင်၊ လျှာခင်ဘေးမှ အမြှေး၊ ပသိလုံး၊ လည်မျိုနှင့် နှာခေါင်းဖြစ်လေသည်။

ထိုရောဂါ ဝင်လာပုံ လက္ခဏာကို အင်္ဂလိပ်ဆေးကျမ်းများ၌ ဤသို့ ဖော်ပြသည်။

ဆုံဆို့နာရောဂါ ဝင်လာသော ကလေးသည် အနည်းငယ်ဖျား၍ ခေါင်းကိုက်သည်။ ခြေလက်နာသည်။ တခါတရံ အော့အန်၍ ဝမ်းပျက်သည်။ ရောဂါပြင်းလျှင် အသားအရေ ဖြူဖျော့၍ လျှာခင်နှင့် ပသိလုံးများ၌ မွဲပြာပြာ အရောင်ရှိသော အမြှေးကပ်လျက် အနာပေါ်လာသည်။ အနာပေါ်သောနေရာနှင့် နီးစပ်သောလည်ချောင်းအတွင်း ရှိနေရာများသည် နီမြန်း၍ အနာ၏အခြေသည် အစိမ်းပုပ်အရောင် ဖြစ်လာပြီးလျှင် အနံ့နံလာသည်။ လည်ပင်းသည်လည်း ရောင်သည်။ နားရွက် အနီးအနား၌ အကျိတ်လုံးများ ပေါ်ထွက်လာလေသည်။

အဖျား အပူချိန်သည် ဖာရင်ဟိုက်ဒီဂရီ ၁၀၁ အထိ တက်၍ လေးရက်အတွင်း အဖျားကျသည်။ ရောဂါပြင်းလျှင် လေရှူရာ၌ ဆို့၍ အသက်ရှူကြပ်လာသည်။ အားစိုက်၍ အသက်ရှူရသည့်အခါ ရောဂါပိုးသည် တခါတရံ လေပြွန်များထဲသို့ ရောက်၍ ကူးစက်ပြန့်ပွားသည်။ ဆေးနောက်ကျလျှင် လေပြွန်နှင့် လေပြွန် အဝင်အဝ နေရာများ၌ လေဝင်လေထွက် ပိတ်သွားတတ်သည်။ ထို့ပြင် တော့ဆင်ခေါ် ငန်းဆိပ်တမျိုးကြောင့် နှလုံးခုန်ရပ်သွားတတ်သည်။ မရပ်မီ နှလုံးနေရာ၌ အောင့်၍နာလာသည်။ အော့အန်စဉ် သွေးခုန်ခြင်းသည် အလွန် လျင်မြန်လာသည်။ ခြေဖျားလက်ဖျားအေး၍ အသည်းသည်လည်း ရောင်ပွလာသည်။

ထိုရောဂါကို အကြောင်းပြု၍ အဆုတ်ရောင်ရောဂါ၊ ကျောက်ကပ်ရောဂါ၊ နားပြည်ယိုရောဂါနှင့်ဦးနှောက်ထဲ၌သွေးကြောဆို့ ရောဂါများပါ နောက်လိုက်၍ ဖြစ်ပေါ်တတ်လေသည်။

ဝက်သက်ရောဂါ၊ ကြက်ညှာချောင်းဆိုး၊ ဆုံဆို့နာ၊ တုပ်ကွေးကြီးရောဂါများမှ တဆင့် ကလေးများတွင် အဆုတ်ရောင် ရောဂါ ဖြစ်ပေါ်တတ်သည်။ ထိုရောဂါသည် ရိုးရိုး နှာစေး ချောင်းဆိုးမှ တိုက်ရိုက်သော်၎င်း၊ ထိုရောဂါပိုး ဝင်စွဲ၍သော်၎င်း ဖြစ်တတ်သေးသည်။

ရောဂါစွဲကပ်သည့် အဆုတ်၏နေရာကို လိုက်၍ အဆုတ်ရောင်နာ အမျိုးမျိုး ရှိရာ ကိုးလသားအောက် ကလေးများ၌ဖြစ်ပွားတတ်သော အဆုတ်ရောင်နာသည် အဆုတ်ပြွန်များတွင်ပါ ရောင်သဖြင့် အဆုတ်နှင့် အဆုတ်ပြွန်ရောင်နာ (ဗရွန်ကိုနျူမိုးနီးယား) ဟု ခေါ်သည်။ နှစ်နှစ်သား အထက် ကလေးများတွင် ဖြစ်လျှင် အဆုတ်ရောင်နာ ဟု ခေါ်သည်။ ငါးနှစ်အောက် ကလေးများသည် အဆုတ်ရောင်နာ ဖြစ်လွယ်လေသည်။

အဆုတ်နှင့် အဆုတ်ပြွန်ရောင်နာသည် ထိုက်ရိုက် ဝင်ရောက်လာလျှင် ရုတ်တရက်အဖျားကြီး၍ အချမ်းပါ မပါတတ်သည်။ အချို့တက်သည်။ ချောင်းဆိုးနှာစေးမှတဆင့် ဝင်လာလျှင်မူ အဖျားတငွေ့ငွေ့မှ စသည်။ မချမ်းလည်း မချမ်း၊ တက်လည်း မတက်ချေ။

ထိုရောဂါ ဖြစ်သော ကလေးသည် အသက်ရှူမြန်လာပြီးလျှင် နှုတ်ခမ်းပြာလာသည်။ အသက်ရှူရာ၌ နှာဖျားလှုပ်သည်။ ရောဂါစွဲသောနေရာတွင် စူးရှသော ခံ့သံများ ကြားရသည်။ ထိုနေရာ၌ လက်ဖြင့် တီးခေါက်ကြည့်လျှင် အတွင်းမှအမာခံသံ ကြားရလေသည်။

ရောဂါမပြင်းလျှင် ရက်ပေါင်း ၂၁ မှ ၃၀ အထိ ဝေဒနာခံကြရသည်။ ရောဂါပြင်းလျှင် အဆုတ်နေရာ၌ တီးခေါက်ကြည့်သည့်အခါ အမာခံအသံသည် ပို၍ ထင်ရှားသည့်ပြင် အသက်ရှူလည်း မြန်သည်။ သလိပ်သံ ထင်ရှားလာလျှင် ကလေးသည် ခြေလက် အလွန် လှုပ်ရှားခြင်းမှ ငြိမ်သွားသည်။ ရောဂါစဖြစ်သည်မှ ရက်သတ္တ သုံးပတ်အတွင်း ဆိုခဲ့သောလက္ခဏာမျိုးပေါ်လာလျှင် ကလေးသည် အလွန် ပျော့ပြီး သေဆုံးတတ်လေသည်။

ကိုးလသား အထက် ကလေးများ၌ ဖြစ်တတ်သော အဆုတ်ရောင်ရောဂါသည် ကူးစက်တတ်သည်။ ထိုရောဂါ ဝင်လာလျှင် ကလေးသည် အပူချိန်ရုတ်ခြည်းတက်လာ၍ အန်သည်။ အချို့အကြောဆွဲ၍ တက်သည်။ ကလေးသည် ထိုင်းမှိုင်းနေပြီးလျှင် ကယောင်ကတမ်း ဖြစ်သည်။ စကားမပြောတတ်သေးလျှင် ခြေလက်ပစ်၍ ကြောင်တောင် ကြည့်တတ်သည်။ အသက်ရှူမြန်သည်။ အပူကြီးသည်။ မျက်စိမျက်နှာနီသည်။ အသားအရေ ခြောက်သည်။ ရင်တွင်နားကြပ်ဖြင့် နားထောင်ကြည့်ပါကအသက်ရှူသွင်းသည့်အခါ အတွင်းမှ ပွက်သံကြားရသည်။ ရောဂါစွဲသော နေရာကို လက်ဖြင့် တီးခေါက်ကြည့်လျှင် အခြေခံမာသောအသံကို ကြားရသည်။

ကလေးများ၌ ထိုရောဂါဖြစ်သော အဆုတ်နေရာသည် ဂျိုင်းအောက်နှင့် ရင်၏အနီးအနား၌ ဖြစ်သည်။ ကလေးသည် အန်သည့်အခါ သွေး အနည်းငယ်လည်း ပါတတ်၍ ထခါတရံ နှာခေါင်းသွေး လျှံတတ်လေသည်။ ထိုရောဂါစွဲကပ်သော ကလေးများ၌ နှုတ်ခမ်းနှင့် မေးစေ့တွင် အပူဖုကလေးများထွက်သည်။ အဆုတ်နှင့် အဆုတ်ပြွန်ရောင်နာတွင်မူ အပူဖု မထွက်ချေ။

ချောင်းဆိုးနှင့်ယှဉ်လျက် အပူချိန်သည် တသမတ်တည်း တန်းနေတတ်သည်။ အပူချိန် ဖာရင်ဟိုက်* ဒီဂရီ တရာ့သုံး၊ လေး၊ ငါး ခန့် တက်နေရာမှ ခုနစ်ရက်မှ ၁၀ ရက်ခန့်အကြာတွင် တမဟုတ်ခြင်း လူကောင်း အပူချိန်သို့ ပြန်ကျတတ်သည်။ ချောင်းဆိုးကား ကျန်နေတတ်လေသည်။

အချို့ ကလေးများတွင် ထိုရောဂါ ပျောက်လွယ်သော်လည်း အချို့ကလေးများတွင် ထိုရောဂါ ပျောက်ခဲပြီးလျှင် အခြား ရောဂါများ ဆက်လက် ဝင်တတ်ရာ ယင်းတို့မှာ ဦးနှောက်မြှေးရောင်ခြင်း၊ နှလုံးရောင်ခြင်းနှင့် ကျောက်ကပ်ရောင်ခြင်းတို့ အပြင် အဆုတ်နှင့် နံရံအကြား၌ သွေးခြည်ဥပြီး အရည်တည်တတ်လေသည်။

**သူဆစ်ဒီးဒီး** (ဘီစီ ၄၆၀–ဘီစီ ၄၀၁) ။ ။သူဆစ်ဒီးဒီးသည် ဂရိလူမျိုးဖြစ်၍ ကြွယ်ဝချမ်းသာသော အက်သင်းမြို့သား မိဖများမှ ဆင်းသက်ခဲ့သည်။ ပယ်လိုပွန်နီးရှန်းစစ်ပွဲကြီး အတွင်းက ရေတပ်ဗိုလ်ကြီးအဖြစ် အမှုထမ်းခဲ့သော်လည်း စစ်ဗိုလ်အဖြစ်နှင့် မကျော်ကြားပဲ သမိုင်းဆရာကြီးအဖြစ်ဖြင့် ပိုမိုထင်ရှားလေသည်။

အက်သင်းနှင့် စပါးတားနိုင်ငံတို့သည် ပယ်လိုပွန်နီးဆပ်ကျွန်းဆွယ်တွင် ဗိုလ်လုရန်အတွက် စစ်ဖြစ်ကြရာ (ဘီစီ ၄၃၁ မှ ဘီစီ ၄၀၄ အထိ) ၂၇ နှစ်မျှကြာလေသည်။ ၄၂၄ ခုနှစ်တွင် သူဆစ်ဒီးဒီး သည် စစ်မှုဝင်ထမ်းရာ မိမိနှင့် မိဖများပိုင်သော ရွှေတွင်းများရှိရာ သရေ့နယ် ကမ်းခြေကို ကာကွယ်စောင့်ရှောက်ရသည့် အက်သင်းရေတပ်ကို အုပ်ချုပ်ရလေသည်။ သို့ရာတွင် အမ်ဖီပိုလစ်မြို့ကို ရန်သူလက်သို့ မကျရောက်စေရန် ကာကွယ်ရာ၌ နှောင့်နှေးသဖြင့် ပြည်နှင်ဒဏ် သင့်လေသည်။

နှစ်ပေါင်း ၂၀ ခန့်မျှ ပြည်နှင်ဒဏ်သင့်ကာ အရပ်ရပ်သို့ လှည့်လည်နေရခိုက် သူဆစ်ဒီးဒီးသည် ပယ်လိုပွန်နီးရှန်းစစ်ပွဲကြီးအကြောင်းကို သမိုင်းတင်လေသည်။ ထိုစစ်ကြီး စတင် ဖြစ်ပွားစကပင် ထိုစစ်ကြီးသည် အထက်ထက်က စစ်ပွဲများထက် ထူးခြားမည်ဟု သူထင်မြင်သဖြင့် ယင်းစစ်ပွဲအကြောင်း သမိုင်းတစောင်ပြုစုရန် ကြံရွယ်ခဲ့၏။

ပြည်နှင်ဒဏ် ခံရသောအခါ၌ကား ထိုကြံရွယ်ချက်ကို ထိရောက်စွာ အကောင်အထည် ဖော်နိုင်ခဲ့၏။ ထိုကြောင့်



အက်သင်းမြို့သား သမိုင်းဆရာကြီး သူဆစ်ဒီးဒီး

သူဆစ်ဒီးဒီးသည် ထိုစဉ်က အဖြစ်အပျက်များကို သမိုင်းတစောင်ပြုရာ၌ ထိုကျမ်းကြီးမှာ ယခင် သမိုင်းဆရာကြီးများပြုစုသော သမိုင်းများနှင့် မတူ၊ ထူးခြား တိကျ မှန်ကန်သော ကျမ်းကြီးဟူ၍ နောက်လူတို့ ကိုးကားကြသည်။

ယခင်က ကျမ်းများမှာ တိုက်ပွဲတွင် သူရဲကောင်း ပီသစွာ မည်သို့မည်ပုံ တိုက်ခိုက်ကြောင်းများကို တခမ်းတနားချဲ့ထွင်ဖွဲ့နွဲ့ သီကုံးထားသည့် ကဗျာလင်္ကာများ ဖြစ်သော်လည်း သူဆစ်ဒီးဒီး၏ ကျမ်းကြီးကား စကားပြေဖြင့် ရေးသားထား၍ မည်သို့သော အကြောင်းကြောင့် စစ်ဖြစ်ပွားရပုံ၊ မည်သို့တိုက်ခိုက်ပုံ၊ တိုက်ပွဲများ၏ အရှုံးအနိုင်၊ နှစ်ဦးနှစ်ဖက်တပ်များ၏ အခြေအနေ အကျိုးအပြစ်များကိုပါ ထည့်သွင်း ရေးသားထားသော ကျမ်းကြီး ဖြစ်လေသည်။

ထိုပြင် သူဆစ်ဒီးဒီးသည် မိမိရေးသားသည့်အကြောင်းအရာများကို တိကျမှန်ကန်စေရန် အသေအချာ စုံစမ်းလေ့လာပြီးမှ ရေးသားလေသည်။ တိကျမှန်ကန်သော အချက်အလက်များ ရရှိရန် ကိုယ်တိုင်စုံစမ်းစစ်ဆေး၍ငင်း ကိုယ်တွေ့ မျက်မြင် ကြုံခဲ့သူများကို သေချာစွာ စစ်ဆေးမေးမြန်းပြီးမှ သော်၎င်း ရေးသားလေ့ ရှိသဖြင့် ထိုကျမ်းကြီး၏ တိကျမှန်ကန်ခြင်းမှာ ကျော်ကြားလှ၏။ ထိုပုဂ္ဂိုလ်ကြီး အလျင်ကျသော သမိုင်းရေး ဆရာတို့သည် မိမိတို့

လိုရာကို ခြီးကျူး အသားပေး၍ ရေးလေ့ ရှိသော်လည်း သူဆစ်ဒီးဒီးကား မျက်နှာမလိုက် မှန်သည့်အတိုင်းသာ အကျိုးအပြစ်တို့ကို တရားလမ်းကျစွာ ထည့်သွင်း ရေးသားထားလေသည်။

ထိုထက် ထူးခြားချက်ကား ထိုစဉ်က ထင်ရှားသော ပုဂ္ဂိုလ်ကြီးများ၏ အခြေအနေအရ ပြောကြားကြသော မိန့်ခွန်းများကို ထည့်သွင်း ရေးသားထားခြင်း ဖြစ်သည်။ ရေးသားရာ၌ ထိုစဉ်က အကယ်ပင် ပြောဆိုသော အကြောင်းအရာများပါဝင်သော်လည်း သဘောထားအချို့နေရာ၌ မိန့်ခွန်းပြောသူ၏ အခြေအနေအလျောက် ပေါ်လာသော စိတ်နေသဘောထားတို့ကိုပါ ပေါ်လွင်ထင်ရှားအောင် သူဆစ်ဒီးဒီးက ဖြည့်စွက် ထည့်သွင်းပေးလေသည်။ ထိုပြင် ထိုအခြေအနေမျိုးတွင် သူဆစ်ဒီးဒီး၏ အထင်အမြင်အားဖြင့် ထိုပုဂ္ဂိုလ်ကြီးတို့ ပြောသင့် ပြောထိုက်သော စကားလုံးတို့ကိုပါ ထည့်သွင်းပေးထားသည့် အထောက်အထားများကို တွေ့ရလေ၏။ အချုပ်ဆိုရလျှင် သူဆစ်ဒီးဒီး ရေးသား ပြုစုသော ကျမ်းကြီးမှာ အပင်ပန်းခံကာ အတန်တန် ကြိုးစားပြုစုခဲ့သည်နှင့်အမျှ စေ့စပ် ပြည့်စုံ၍ တိကျလှပေသည်။ သူဆစ်ဒီးဒီး၏ အရေးအသားကိုလည်း အကောင်းဆုံးသော စကားပြေ ရေးသားနည်းမျိုး ဟု နောက်ဆရာတို့က အတုယူရလေသည်။

သူဆစ်ဒီးဒီး၏ သမိုင်းကြီးသည် အစောင် ရှစ်တွဲမျှ ရှိလေသည်။ ပယ်လိုပွန်နီးရှန်း စစ်ပွဲမှာ ဘီစီ ၄၀၄ ခုနှစ်တွင်မှ ပြီးဆုံးသော်လည်း သူ့ကျမ်းတွင် ဘီစီ ၄၁၁ ခုနှစ် အဖြစ်အပျက်များ အထိသာလျှင် ပါရှိလေသည်။ စပါးတန်းတို့အား အက်သင်းမြို့သားတို့ အညံ့ခံရပြီးနောက် ခြောက်လခန့်အကြာတွင် သူဆစ်ဒီးဒီးသည် အက်သင်းမြို့သို့ ပြန်လာကြောင်း၊ ၃၉၉ ခုနှစ်မတိုင်မီ အနိစ္စရောက်ကြောင်း အထောက်အထားများကို တွေ့ရှိရသော်လည်း မည်သည့်အခါက မည်သည့်အရပ်တွင် အနိစ္စရောက်ကြောင်းကိုကား အသေအချာ မသိရပေ။ သူ၏ သမိုင်းကျမ်းကြီးမှာ ရုတ်တရက် အဆုံးသတ်ထားခြင်းကို ထောက်၍ ထိုပုဂ္ဂိုလ်ကြီးသည် ရုတ်တရက်ပင် ကွယ်လွန်လေသလောဟု ခန့်မှန်းရလေသည်။

# ဗြဟ္မစိုရ်တရားအရင်းခံသောလုပ်ငန်း

**သူနာပြုခြင်းမှာ အရေးပါသော လူမှုလုပ်ငန်းဖြစ်လာသည်မှာ မကြာသေးပေ။ မူလက ကုသိုလ်ဖြစ် လုပ်ငန်းတခုသာ ဖြစ်၍ နောင်အခါမှ အသက်မွေးမှု လုပ်ငန်းတရပ် ဖြစ်လာသည်။ အရေးကြီးသော လူနာတဦးအတွက် ကျွမ်းကျင်သော သမားကောင်းနှင့် ဆရာဝန်တို့ အရေးပါသကဲ့သို့ သူနာပြုကောင်းကောင်းသည်လည်း အရေးပါလှသည်။**

**သူနာပြုအတတ်။** ။သူနာပြုအတတ်သည် မေတ္တာ၊ကရုဏာ၊ မုဒိတာ၊ ဉပေက္ခာ တည်းဟူသော ဗြဟ္မစိုရ် တရားလေးပါးအပေါ် အခြေခံထား၍ ဝေဒနာရှင်တို့အား ကိုယ်ကျိုး မငဲ့ပဲ ပြုစုလုပ်ကိုင်ပေးရသော လုပ်ငန်းတရပ်ဖြစ်၍ စေတနာ့ဝန်ထမ်း လုပ်ငန်းတခုအဖြစ်မှ စတင်ခဲ့လေသည်။ ယင်းအတတ်သည် လူမှုရေးရာတွင် အရေးပါသောလုပ်ငန်းတရပ်အနေဖြင့် လွန်ခဲ့သောနှစ်ပေါင်း ၁၀၀ နီးပါးခန့်ကမှ ကမ္ဘာပေါ်၌ ထင်ရှား ခေတ်စား လာခဲ့သည်။ လူနေမှုအဆင့်အတန်း နိမ့်ကျစဉ် ခေတ်အခါက ယခု အချို့လူရိုင်းမျိုးတို့ကဲ့သို့ နာဖျားမကျန်း ရှိသူများကို ဂရုတစိုက် ပြုစုစောင့်ရှောက် ကုသခြင်း မပြုကြသည့်ပြင် မကောင်းဆိုးဝါး၏ နှောင့်ရှက်ခြင်း ဟုသာ ယူဆကြသဖြင့် နာမကျန်းသူထံမှ မကောင်းဆိုးဝါး ထွက်သွားစေရန် ရိုက်မောင်း ပုတ်မောင်းပင် ပြုခဲ့ကြသည်။ လူနေမှု အဆင့်အတန်း တစတစ တိုးတက်လာသောအခါမှ နာဖျားမကျန်းမာသူများ၊မစွန်းမသန်သူများ၊ ကလေးသူငယ်များအား စောင့်ရှောက် ပြုစုရန်သည် လူသားတို့၏ တာဝန်တရပ်ဟု သိရှိ နားလည်လာကြသည်။ သို့သော် သူနာ ပြုစုခြင်းသည် ကုသိုလ်ဖြစ် သက်သက်သာ ဖြစ်ခဲ့၍ အသက်မွေးဝမ်းကျောင်း တရပ်အနေဖြင့် အသွင်ပြောင်းလာခဲ့သည်မှာလည်း မကြာလှသေးပေ။

သူနာပြုအတတ်သည် ရှေးပဝေဏီကပင် ရှိခဲ့ကြောင်း ရှေးစာပေကျမ်းဂန်များအရ သိရှိရပေသည်။ အိန္ဒိယနိုင်ငံတွင် ဂေါတမမြတ်စွာဘုရား လက်ထက်၌ ပေါ်ပေါက် ထင်ရှားခဲ့သော သမားအကျော်အမော်ကြီး ဇီဝကသည် သူနာပြုတို့ လိုက်နာဆောင်ရွက်အပ်သောကျင့်ဝတ်များကို သတ်မှတ်ထားရှိခဲ့သည်။ ဗက်ဗီလုံး ရှေးဟောင်းစာပေ၊ အီဂျစ်ရှေးဟောင်း စာပေတို့၌လည်း သူနာပြု အတတ်နှင့် စပ်လျဉ်းသော အချက်အလက်များကို ရေးသားထားချက်များ တွေ့ရသည်ဟု ဆိုကြသည်။ ခရစ်တော် ပေါ်ပြီးနောက်တွင်လည်း ခရစ်တော်၏ အဆုံးအမအရ ခရစ်ယန်အမျိုးသား သင်းထောက်နှင့် အမျိုးသမီး သင်းထောက်တို့သည် သူနာများကို ကောင်းမွန်စွာ ပြုစု စောင့်ရှောက်ခဲ့ကြသည်။

သူနာပြုများကိုပြုစုစောင့်ရှောက်ရန် နောင်အခါ အယူဝါဒရေးဂိုဏ်းများက တည်ထောင်ဆောင်ရွက်သော သူနာရုံများ ဉရောပတိုက်တွင် တစတစပေါ်ပေါက်လာလေသည်။ ထိုမျှသာမက ကရူးဆိတ် စစ်ပွဲများကို အကြောင်းပြု၍



**သူနာပြုအတတ်သည် ဇွဲ၊ သတ္တိနှင့် ကရုဏာတရား ပြည့်ဝရသည်။**

စစ်ပွဲအတွင်း ထိခိုက် ဒဏ်ရာရသူများအား ပြုစု စောင့်ရှောက်ရန်အတွက် စစ်သူနာပြု အဖွဲ့အစည်းများလည်း ရှိခဲ့လေသည်။

သို့သော် ခရစ်နှစ် ၁၅၃၆—၄၀ ပြည့် နှစ်များတွင် ဘုန်းကြီးကျောင်းများကို ဖျက်သိမ်းလိုက်သဖြင့် သူနာပြု လုပ်ငန်းသည် ဥရောပ နိုင်ငံများတွင် မှေးမှိန်သွားခဲ့ရသည်။ သူနာပြု အလုပ်သည် အညစ်အကြေးနှင့် ဆက်စပ်သဖြင့် အောက်တန်းကျသောအလုပ် ဟူ၍ အထင်အမြင် လွဲမှားခဲ့ကြသည်။ ထို့ကြောင့် ကရုဏာရှင် သာသနာပြုဝန်ထမ်းများနှင့် ဆင်းရဲသူဆင်းရဲသားများသာလျှင် ဆောင်ရွက်ခဲ့ကြလေသည်။

တဆဲ့ကိုးရာစုနှစ်တွင်မှ သူနာပြုအတတ်သည် တစတစဖြင့် ပြန်၍ခေတ်စားလာလေသည်။ စက်မှုအရေးတော်ပုံသည် သူနာပြုအတတ်ကို ပြန်၍ အခြေမြှင့်ပေးသော အကြောင်းတရပ်ဖြစ်၍ အခြားအကြောင်းတရပ်မှာ ဆေးပညာ တိုးတက်လာမှုဖြစ်ပေသည်။ ထိုသို့ ဆေးပညာ တိုးတက်လာသောအခါ သူနာပြုသည် ဆရာဝန်များ၊ သမားများအတွက် အရေးပါသော အကူအညီတယောက် ဖြစ်လာလေသည်။

လူအများ၏ အထင်သေးခံရသော အလုပ်တခုအဖြစ်မှ မွန်မြတ်သော အလုပ်တခုအဖြစ်သို့ ရောက်အောင် သူနာပြုအတတ်၏အဆင့်အတန်းကို မြှင့်တင်ပေးခဲ့သူများ အနက် အထင်ရှားဆုံးမှာ ကမ္ဘာကျော် သူနာပြု ဖလော်ရင့် နိုက်တင်းဂေး ဖြစ်ပေသည်။ (နိုက်တင်းဂေး ဖလော်ရင့်—ရှု။) နိုက်တင်းဂေး ဆောင်ရွက်ခဲ့မှုကို အကြောင်းပြု၍ စစ်မက်ရေးရာများတွင် စစ်သူနာများကို ပြုစုစောင့်ရှောက်ရန် ကြက်ခြေနီ အသင်းကြီး ပေါ်ပေါက်ခဲ့သည်။ (ကြက်ခြေနီ အသင်း — လည်းရှု။)

သူနာပြုအတတ်ပေါ်စဉ်က သူနာပြုလုပ်ငန်း၏ နယ်ပယ်သည် ကျဉ်းမြောင်းလှသည်။ ထိုစဉ်က သူနာပြုများ၏ အလုပ်မှာ သူနာများကို ပြုစုပေးရုံမျှသာ ဖြစ်လေသည်။ ထို့နောက် လူ့လောက၏ တိုးတက် ပြောင်းလဲလာသော အခြေအနေနှင့် လိုက်လျောညီစွာ သူနာပြု လုပ်ငန်း၏ နယ်ပယ်သည်လည်း ကျယ်ဝန်းလာသည်။ ခေတ်အလျောက် ပေါ်ပေါက်ထွန်းကားလာသော သိပ္ပံပညာရပ်များကလည်း သူနာပြု အတတ်နှင့် နည်းစံနစ်များကို ခေတ်မှီ အဆင့်အတန်းသို့ ရောက်ရှိနိုင်စေရန် မြှင့်တင်ပေးခဲ့ကြသဖြင့် ယဉ်ကျေး တိုးတက်လျက် ရှိသော နိုင်ငံကြီးများတွင် သူနာပြု လုပ်ငန်းသည် အရေးပါသော ပြည်သူ့ကျန်းမာရေး လုပ်ငန်းကြီးတခုအဖြစ်သို့ ရောက်ရှိခဲ့လေသည်။

သူနာပြုလုပ်ငန်းသည် အမျိုးသမီးများ၏ လုပ်ငန်းတခုသဖွယ် ဖြစ်နေသည်။ အမျိုးသားသူနာပြုများ ရှိလင့်ကစား အမျိုးသမီးများ၏ ဦးရေနှင့် နှိုင်းစာလျှင် မပြောပလောက်ပေ။ စစ်သူနာပြုအဖွဲ့များတွင်သာ အမျိုးသားသူနာပြုဦးရေက ပိုမိုများပြားလေသည်။ အကူအညီ အထူးလိုအပ်နေသောလူနာအား ယုယပိုက်ထွေး သက်သာမှုပေးရသည့် မွန်မြတ်သော လုပ်ငန်းသည် မိခင်စိတ်ရှိကြသော အမျိုးသမီးများနှင့် ပိုမို လျော်ကန် သင့်မြတ်ပေသည်။ သို့သော် သာမန် အမျိုးသမီးတိုင်းလည်း ထိုအလုပ်ကို မလုပ်နိုင်ကြချေ။ ဒုတိယ ကမ္ဘာစစ်မတိုင်မီ ခေတ်အထိ မြန်မာနိုင်ငံတွင် ဗုဒ္ဓဝါဒီမြန်မာအမျိုးသမီးများထဲမှ သူနာပြု အလုပ် လုပ်ကိုင်သူ အလွန် နည်းပါးခဲ့သည်။ အယူဝါဒရေးအရ ကြည့်လျှင် မေတ္တာ၊ ကရုဏာ၊ စေတနာတို့ကို အရင်းထားကာ ဝေဒနာရှင်တို့အား ဝေဒနာမှ သက်သာရာရရန် စောင့်ရှောက် ပြုစုခြင်း၊ အသက်ကယ်ဆယ်ခြင်း စသည်တို့ကို ဆောင်ရွက်ရသဖြင့် အလွန်မွန်မြတ်၍ ကုသိုလ်ပွားနိုင်သော အလုပ် ဖြစ်ငြားသော်လည်း ရိုးရာဓလေ့ အစွဲကလေးများကို မဖျောက်နိုင်ကြသဖြင့် အညစ်အကြေးနှင့် ဆက်စပ်သော အလုပ်တခုအဖြစ် လုပ်ကိုင်သူ နည်းပါးခဲ့ခြင်းဖြစ်လေသည်။ စစ်ပြီးကာလ နောက်ပိုင်းတွင်မှ ထိုလုပ်ငန်း၏ မွန်မြတ်ခြင်းကို သိမြင်လာကြသဖြင့် ဝင်ရောက်လုပ်ကိုင်သူ မြန်မာအမျိုးသမီးကလေးများ များပြားလာသည်။ စစ်ပြီးကာလနောက်ပိုင်းမှစ၍ ဆေးခန်း၊ ဆေးရုံတို့၏ အကျိုးကျေးဇူးကို သိမြင်လာကြ၍ ဆေးခန်း၊ ဆေးရုံ

များတွင် တက်ရောက် ကုသမှု ခံယူကြသော ဝေဒနာရှင်များကလည်း များပြားလာပေရာ သူနာပြု အများအပြား ရှိရန်လည်း လိုအပ်လာခဲ့လေသည်။

ကမ္ဘာ့နိုင်ငံကြီးများရှိ မြို့ကြီးတိုင်းတွင် သူနာပြုဆရာမ သင်တန်းများကို ဆေးရုံကြီးများတွင် ဖွင့်လှစ်သင်ကြားပေးကြသည်။ ဆေးရုံအုပ်များသည် သင်တန်းတက်လိုသူများ၏ လျှောက်လွှာကို သင်တန်းမဖွင့်မီ လအနည်းငယ်ခန့်က ကြိုတင် လက်ခံကြသည်။ သင်တန်း တက်လိုသူတို့အတွက် သတ်မှတ်ထားသော အရည်အချင်းများအနက် ကျန်းမာရေးနှင့် ပြည့်စုံမှု၊ သတ်မှတ်ထားသော ပညာအရည်အချင်းနှင့် ပြည့်စုံမှုတို့ကို အရေးထား၍ ရွေးချယ်ရသော်လည်း ထိုလုပ်ငန်းအတွက် သည်းခံနိုင်စွမ်း ရှိမှု၊ ဇွဲသတ္တိ လုံ့လ ဝီရိယနှင့် ပြည့်စုံမှု၊ ကရုဏာတရား ပြည့်ဝမှုတို့လည်း အရေးကြီးပေသည်။ သင်တန်းတက်ရန် ရွေးချယ်ခံရသူတို့သည် လအနည်းငယ်ခန့် အစမ်းသင်တန်း တက်ကြရသည်။ အစမ်းသင်ချိန် ထားရခြင်းမှာ အလုပ်ကို စိတ်ဝင်စားသလောက် လိုက်နိုင်မလိုက်နိုင် ချင့်ချိန်ရန် ဖြစ်သည်။ သူနာပြု အတတ်သည် သက်သာ လွယ်ကူသော အလုပ်မဟုတ်ပေ။ အစမ်းသင်ချိန်တွင် သင်ကြားမှု အရပ်ရပ်ကို ဇွဲကောင်းကောင်းဖြင့် လိုက်နိုင်ခဲ့ပါမှ သင်တန်း ကုန်ဆုံးသည်အထိ သင်ယူရန် ဝန်ခံချက်ကို လက်မှတ် ရေးထိုးကြရသည်။

သူနာပြု သင်တန်း တက်လိုသူများအတွက် သတ်မှတ်ထားသော အသက် အပိုင်းအခြားမှာ အင်္ဂလန်ပြည်၌ အငယ်ဆုံး ၁၈ နှစ်မှ ၁၉ နှစ်ဖြစ်၍ မြန်မာနိုင်ငံတွင် ၁၈ နှစ်မှ ၂၄ နှစ်အထိ ဖြစ်သည်။ သင်တန်းကာလ အပိုင်းအခြားမှာ သုံးနှစ်မှ လေးနှစ်အထိ ဖြစ်သည်။ အချို့ သင်တန်းများမှာ ထိုမျှလောက် ကာလ အပိုင်းအခြား မရှည်ချေ။ နိုင်ငံကြီး အချို့တွင် သူနာပြုကျောင်းများ ဖွင့်လှစ်ထားလေသည်။

သင်တန်းတက်နေစဉ်အတွင်း နေရာထိုင်ခင်းနှင့် အစားအသောက်တို့ကို အခမဲ့ရကြသည့်ပြင် သင့်တင့်သော လစဉ်ထောက်ပံ့ကြေးလည်း ရကြသည်။ အနာရောဂါ ကာကွယ်ရေး၊ ပျောက်ကင်းအောင် ကုသရေးနှင့် သက်ဆိုင်သော အချက်အလက်များ၊ ဆေးဝါးနှင့် ခွဲစိတ်မှုဆိုင်ရာ အချက်အလက်များ၊ ခန္ဓာဗေဒ၊ အနာတမီစသည်တို့ကို ဆရာဝန်များကဲ့သို့ ပြည့်စုံ လုံလောက်စွာ မသင်ကြားရသော်လည်း သူနာပြုတို့အဆင့်နှင့် လျော်ညီစွာ အခြေခံအားဖြင့် သိရှိနားလည်ထားရန် အချက်အလက်များကို သင်ကြားကြရသည့်ပြင် လူနာအား သက်သာမှု ရစေရန် ပြုစု စောင့်ရှောက်နည်းများလည်း ပါဝင်လေသည်။

ပြင်းထန်သော ဒဏ်ရာ အနာတရ ဖြစ်ခြင်း၊ သို့မဟုတ် ရောဂါဝေဒနာ တခုခု စွဲကပ်ခြင်းသည် ဆေးဝါးဖြင့်ငင်း၊ ခွဲစိတ်ခြင်းဖြင့်ငင်း ကုသမှုအပြင် လူနာကို ကောင်းစွာပြုစုစောင့်ရှောက်မှုလည်း လိုအပ်ပေသည်။ ပြုစု စောင့်ရှောက်မှု မဟုတ်သဖြင့် လူနာ တဦးတယောက် မတိမ်းပါးသင့်ပဲ တိမ်းပါးသွားရသည့် ကိစ္စများလည်း ရှိခဲ့သည်။ ထို့ကြောင့် အရေးကြီးသော လူနာများကို ဆရာဝန်များက အထူး သူနာပြုများကို ပြုစုစောင့်ရှောက်စေခြင်း ဖြစ်လေသည်။ ယင်းသည်ကို ထောက်၍ ရောဂါ ဝေဒနာ ကြီးကြီးကျယ်ကျယ် ဖြစ်သည့်အခါ သူနာပြုကောင်းကောင်း လိုအပ်သည်မှာ အရေးပါသော အချက်တရပ် ဖြစ်ပေသည်။

သူနာပြုတို့၏ အဓိက ဝတ်တရားများမှာ ဆရာဝန် မှာကြားချက်အတိုင်း လူနာအား အချိန်မှန် ဆေးဝါးတိုက်ခြင်း၊ ဆေးလူးပေးခြင်း၊ လူနာ၏ ရောဂါလက္ခဏာများကို မှတ်သားထားခြင်း၊ အဖျားချိန်တိုင်းခြင်း၊ သွေးခုန်နှင့် အသက်ရှူနှုန်းကို မှတ်သားခြင်း၊ ဒဏ်ရာများ အနာများကို ဆေးထည့်ပေးခြင်း၊ သင့်လျော်သော အစားအသောက်များ ပေးစေခြင်း၊ ကိုယ်တိုင် မစားနိုင်သော လူနာများကို အစာကျွေးခြင်းတို့လည်း ပါဝင်သည်။ ထို့ပြင် သက်ဆိုင်ရာ ဆရာဝန်များက ညွှန်ကြားလျှင် လူနာအား ဆေးထိုးပေးခြင်း စသော အထူးပြုစု ကုသမှုတို့ကိုလည်း ဆောင်ရွက်ပေးရသည်။ ခွဲစိတ်ခန်းများတွင် ခွဲစိတ် ကုသရမည့် လူနာများအတွက် အသင့်ရှိရန် လိုအပ်သလို ပြင်ဆင်ရခြင်း၊ ခွဲစိတ်ရာတွင် အသုံးပြုရမည့် ပစ္စည်းကရိယာများကို ပေါင်းတင်ခြင်းတို့ကိုလည်း ပြုလုပ်ရသည်။ အရေးတကြီး ကိစ္စများ၊ အခြေအနေများ ဖြစ်ပေါ်သည့် အခါများတွင်လည်း ကြက်ခြေနီအသင်းနှင့် တွဲဖက်၍ ကယ်ဆယ်ရေး လုပ်ငန်းများကို ဆောင်ရွက်ရာ၌ ကူညီကြရလေသည်။

အတွေ့အကြုံများပြီးသော၊ သို့မဟုတ် လုပ်သက်ရင့်ပြီးသော သူနာပြုတဦးသည် ဆရာဝန် တယောက် နီးပါးမျှအားထားရ၍ ဆရာဝန်အတွက်လည်း အလွန် အရေးပါသော အကူအညီကို ရရှိစေနိုင်လေသည်။

သူနာပြု အတတ်သည် လခကိုသော်ငင်း၊ ရရှိမည့် အခကြေးငွေ လပ်သပ်ပကာကိုသော်ငင်း ပဓာန မထားပဲ ကရုဏာ၊ မေတ္တာ၊ စေတနာကို ရှေးရှုရသော လုပ်ငန်းသက်သက် ဖြစ်ရကား သင်တန်း အောင်မြင်၍ အလုပ်တတ်မြောက်ရုံနှင့် မပြည့်စုံသေးချေ။ လူနာအား ကြင်နာမှု၊ သည်းခံနိုင်မှု၊ သက်သာစေမှု စသည့် စိတ်ရင်းခံ သဘောထားသည် ပို၍ အရေးကြီးပေသည်။ သို့မှသာလျှင် မွန်မြတ်သောအလုပ်ကို ရွက်ဆောင်ဝန်ထမ်းရာ ရောက်ပေသည်။

**သူရဿတီ။** ။သူရဿတီ နတ်သမီးကို များစွာသော လူတို့က ပိဋကတ်သုံးပုံကို စောင့်သော နတ်သမီး၊ စကား

တတ်အောင် နှုတ်ကို စောင့်သော နတ်သမီး စသည်ဖြင့် ယုံကြည် ကိုးကွယ်ကြသည်။ မြန်မာနိုင်ငံဝယ် အစဉ်အဆက် ကိုးကွယ်လေ့ပြုသော အတွင်း ၃၇ မင်း နတ်တို့တွင် သူရဿတီနတ်သမီးကိုပါ ထည့်သွင်း ကိုးကွယ်ခဲ့ကြသည်။ ဟိန္ဒူ အယူဝါဒ၌ ဩကာသ လောကနှင့် သတ္တလောကကြီးကို ဖန်ဆင်းသူအဖြစ် ကိုးကွယ်ကြသော ဗြဟ္မာကြီးရှိသည်။ ထို ဗြဟ္မာကြီး၏ ဇနီးကို သူရဿတီနတ်သမီးဟုခေါ်၍ စာပေ ပညာနှင့် နှုတ်မှုပညာများကို စောင့်ရှောက်သည်ဟု အယူရှိကြလေသည်။

သူရဿတီဟူသော အမည်သည် သသ်ကရိုက်ဘာသာဖြင့် သရသ္ဝတီကို မြန်မာအသံဖြင့် ခေါ်ခြင်း ဖြစ်သည်။ သရသ္ဝတီဟူသည် သရသ်နှင့် ဝတီကို ပေါင်းထားခြင်း ဖြစ်သည်။ သရသ်၏အနက်ကား ရေဖြစ်၍ ဝတီ၏ အနက်ကား ရှိသည်ဟု ရသည်။ တနည်းအားဖြင့် သနှင့် ရသနှင့် ဝတီကို ပေါင်းထားသည်ဟု ဆိုနိုင်သည်။ သ၏ အနက်မှာ အတူတကွဖြစ်၍၊ ရသ၏ အနက်သည် ရေ၊ သို့မဟုတ် ချိုမြိန်ခြင်းဖြစ်ပြီးလျှင်၊ ဝတီသည် ရှိသည်ဟု အနက်ရသည်။ မည်သို့ပင်ဖြစ်စေ၊ အနက်သဘောအရ ရေ၌ နေထိုင်လေ့ရှိသော၊ ရေနှင့် အတူတကွရှိသော နတ်သမီး ဟုဖြစ်သည်။ ထို့ကြောင့် သူရဿတီ နတ်သမီး ရုပ်ပုံများကို ရေးခြယ်ထုလုပ်သည့်အခါ ရေအိုင်အတွင်း ဟင်္သာရုပ်ကို စီးကာ ကြာပွင့်ကို ကိုင်လျက် ရပ်တည်နေပုံ ရေးခြယ် ထုလုပ်လေ့ရှိကြသည်။

သူရဿတီ နတ်သမီးအား ဗြဟ္မီဟူ၍၎င်း၊ ဝါဂီသွရီဟူ၍၎င်း၊ ဝါဂဒ ဒေဝတာဟူ၍၎င်း၊ သာရဒါဟူ၍၎င်း၊ ဝါဏီဟူ၍၎င်း အမည်အမျိုးမျိုးနှင့် ခေါ်ကြသေးသည်။ မန်လည် ဆရာတော်ဘုရားကြီး၏ မဃဒေဝ လင်္ကာသစ် ကျမ်းဦး၌ —

“သုံးပုံပိဋကတ်၊ ဝါဏီမြတ်ဟု၊ သူရဿတီ၊ နတ်ဒေဝီ
လည်း၊ ယှဉ်မှီနိစ္စ၊မပြတ်မလျက်၊ ငါ့နှုလုံးတိုက်၊ ရွှေကြာ
သိုက်၌၊ ပျော်ပိုက်စေပြီး....”

ဟု စပ်ဆိုထားသည်ကို တွေ့ရပေမည်။

သက္ကရာဇ် ၁၁၁၂ ခုနှစ်က အမတ်ကြီး မင်းရာဇာသည် မွန်ဘာသာ ကဗျာကျမ်းမှ မြန်မာဘာသာသို့ ပြန်ဆိုရေးသားသော ဟိတကာရီ လင်္ကာ၌ —

“ဟင်္သာဖြူစင်၊ ယာဉ်ပေါ်တွင်၌၊ ဆင်းအင်ဖြူဆွတ်၊
ကိုယ်ရောင်မွတ်လျက်၊ ကြီးမြတ်ဉာဏ၊ ဘုန်းတေဇဖြင့်၊
လက်လှ ဗယ်ညာ၊ နှစ်ဖက်မှာကား၊ ပဒုမာဖြူ၊ စိန်ရောင်
တူကို၊ ခွဲယူအံ့ဖွယ်၊ လွန်တင့်တယ်သည်၊ မိမယ်သူရသ်၊
သတီနတ်။ ။ကောင်းမြတ်လှစွာ၊ သုတကာကို၊ပညာ
ကြီးကြောင်း၊ ဆောင်ပေကောင်းရှင့်၊ ထပ်လောင်းစီး
ပွား၊ ကျွန်ုပ်အားလည်း၊ စကားသာချို၊ တခွန်းဆိုက၊



ပုပ္ပားတောင်ကလပ်ရှိ သူရဿတီမယ်တော်ရုပ်တု

အဟိုလှူနတ်၊ ဝိတ္တုပ္ပာဒ်ဖြင့်၊ ညွတ်အောင်မယ်စော၊
ဆောင်စေသော၀”

ဟု သူရဿတီ နတ်သမီး စီးသော ယာဉ်၊ ကိုင်သော ပစ္စည်း၊ ပေးနိုင်စွမ်းသော အစွမ်းသတ္တိတို့ကို ထည့်သွင်းကာ စပ်ဆိုထားလေသည်။

သူရဿတီ နတ်သမီးသည် အတတ်ပညာ၊ ကျက်သရေ မင်္ဂလာ စသည်တို့ကို ပေးစွမ်းနိုင်သည်ဟု ယုံကြည်ကြသည့် အလျောက် သူရဿတီဂါထာ၊ သူရဿတီ မန္တန်၊သူရဿတီ အင်း၊ သူရဿတီမှော် စသည်ဖြင့် အစီအရင် အမျိုးမျိုးကို ပြုလုပ်၍ ဆောင်ကြ ရွတ်ဆိုကြလေသည်။

“ဥုံ ပိဋကတ္တာယ သမ္ပုဏ္ဏံ၊
သဗ္ဗ သိဒ္ဓိ သုခါဝဟံ။
ဇိဝှဂ္ဂေ မေ နိသီဒိတွာ၊
မံ ပါလေတု သူရဿတီ။ ။”

ဟူသော သူရဿတီ ဂါထာကို ရွတ်ဆိုပါက ဉာဏ်ကောင်းသည်။ ပိဋကတ်တော်ကိုပင် ဖတ်လွယ်သည်ဟု ယူဆ ယုံကြည်ကြလေသည်။ အိန္ဒိယနိုင်ငံ၌မူ ထိုနတ်သမီးအား ပညာပေးတတ်သည်ဟု ယူဆကာ “သရသ္ဝတီပူဇာ” ခေါ် ပူဇော်ပွဲများ ယခုတိုင် ကျင်းပလေ့ ရှိကြသည်။ ထိုပူဇော်ပွဲ၌ ဟင်္သာရုပ် စီးနင်းလျက်ရှိသော သူရဿတီပုံတော်ရှေ့၌ အမျိုးသမီးများကလည်း မိမိတို့ လက်မှု၊ နှုတ်မှုအတတ်

ပညာဆိုင်ရာ ပစ္စည်းများ၊ အမျိုးသားများကလည်း သက်ဆိုင်ရာ လက်မှုနှတ်မှုပညာ လက်နက်ကိရိယာများ၊ ကလေးသူငယ် ကျောင်းသားရွယ်များကလည်း စာအုပ်၊ ခဲတံစသည့် ကျောင်းသုံးပစ္စည်းများကို ချ၍ ပူဇော်ကြပေသည်။

**သေတမ်းစာ။** ။သေတမ်းစာဆိုသည်မှာ ပုဂ္ဂိုလ်တဦးသည် မိမိကွယ်လွန်သောအခါ မိမိပိုင် ကြေးငွေပစ္စည်းများကို မည်သို့ မည်ပုံ ဝေဖန် ချထားလိုကြောင်း မိမိ၏ရည်ရွယ်ချက်ကို ထုတ်ဖော်၍ မသေမီကပင်ရေးသားထားသော တရားဝင် ကျေညာချက်စာတမ်းဖြစ်သည်။ အမွေ ဆက်ခံခြင်းအက်ဥပဒေအရ အနောက်နိုင်ငံများ၌သေတမ်းစာရေးရန် ခွင့်ပြုထားသော်လည်း ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးများအဖို့ သေတမ်းစာ ရေးသားခွင့် မရှိချေ။ မြန်မာတို့၏ မည်သည့် ဓမ္မသတ်၊ လွှတ်တော်မှတ်တမ်း စသည်တို့၌မျှ သေတမ်းစာ ရေးနိုင်ကြောင်း မပါရှိချေ။

၁၈၆၆ ခုနှစ်တွင် အောက်မြန်မာနိုင်ငံကိုအုပ်ချုပ်လျက်ရှိသော မဟာဝန်ရှင်တော်မင်းကြီး ဆာအာသာဖယ်ယာက ဗုဒ္ဓအယူဝါဒီ မြန်မာနှင့် သေတမ်းစာ ကိစ္စကို အောက်ပါအတိုင်း ကျေညာချက် ထုတ်ပြန်ခဲ့ဘူးလေသည်။

"အမွေခံအမွေစားရှိသည့် ဗုဒ္ဓဘာသာမြန်မာများသည် ဗုဒ္ဓဘာသာ မြန်မာ အမွေခန်း တရားဥပဒေနှင့် ဆန့်ကျင်၍ သေတမ်းစာဖြင့် ရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများ၊ မရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများကို ဝေဖန်ချထားလျှင် ထိုသေတမ်းစာကို ခိုင်မာ တည်မြဲသည့်စာတမ်းအဖြစ် ရုံးတော်မှ လက်မခံသင့်ပေ။"

၁၈၇၉ ခုနှစ် 'မောင်မိနှင့် စစ်ကင်ငါး' အမှု၌ သီပေါဘုရင်၏ လွှတ်တော်ဝန်ကြီးများ၊ မှူးမတ်များနှင့် အင်္ဂလိပ်အရာရှိများသည် ရှိသမျှ ဓမ္မသတ်များနှင့် လွှတ်တော်မှတ်တမ်းများကို သေချာစွာ လေ့လာစိစစ်ပြီးနောက် —

"သေတမ်းစာ ဟူသော စကားသည် ဓမ္မသတ်များ၌ မည်သည့် နေရာမှ မပါရှိပေ။ ထိုစကား၏ အဓိပ္ပါယ်သည် အင်္ဂလိပ်ဘာသာဖြင့် 'ဝီ' ဟုခေါ်သော သေတမ်းစာ သဘောနှင့် မတူချေ။ မိဖများသည် သေမည် ဟု သိသောအခါ အမွေခံများကိုခေါ်၍ မိမိတို့၏ပစ္စည်းကို နှုတ်ဖြင့် ဖြစ်စေ၊ စာရေး၍ဖြစ်စေ ခွဲဝေပေးပြီးလျှင် အချင်းချင်း အညင်းအခုံမပြုလုပ်ပဲ အေးချမ်းစွာ နေရစ်ရန် မှာထားခဲ့တတ်ကြသည်။ ဤသို့ပြုလုပ်ခြင်းမှာ မြန်မာဘာသာဖြင့် သေတမ်းစာ ဆိုသော စကား၏ အဓိပ္ပါယ်ပင် ဖြစ်သည်။ သို့ဖြစ်၍ ဗုဒ္ဓဘာသာ မြန်မာလူမျိုးများသည် 'ဝီ' ခေါ်သော သေတမ်းစာမျိုးကို မပြုလုပ်နိုင်"ဟု ဆုံးဖြတ်လေသည်။

ဗုဒ္ဓအယူဝါဒီ မြန်မာများ သေတမ်းစာရေးသားခွင့်မရှိဟူသည့် တရားဥပဒေကို လှည့်စားသောအားဖြင့် သေတမ်းစာ သဘောသက်ရောက်သည့် စာချုပ်စာတမ်းများ ပြုလုပ်လေ့ ရှိကြောင်း မကြာခဏတွေ့ရသည်။ အချို့ မိဖများသည် သားသမီးများ ရှိသည့်အနက် အချို့ သားသမီးကိုသာ ပိုမိုပေးလိုသည့်အခါ ပစ္စည်းအရောင်းအဝယ် စာချုပ်ပြု၍ ပေးတတ်သည်။ သို့ရာတွင် ယင်းသည်လည်း ဟန်ဆောင်သော သေတမ်းစာတမျိုးသာ ဖြစ်သဖြင့် တရားမဝင်ကြောင်းဖြင့် အတိအလင်း ဆုံးဖြတ်ထားလေသည်။ ဗုဒ္ဓအယူဝါဒီမြန်မာတို့သည် လင်သေလျှင် မယားဆိုင်၍ မယားသေလျှင်လင်ဆိုင်ပြီးလျှင် နှစ်ယောက်စလုံးသေပါက အမွေသည် အောက်သို့ စုန်နိုင်လျှင် အထက်သို့ မဆန်ရဟူသည့် အခြေခံသဘောကို လိုက်နာကြရသဖြင့် ဆန္ဒရှိသည့်အလျောက် သေတမ်းစာရေးသားခွဲဝေပေးနိုင်ခြင်းမရှိချေ။

သေတမ်းစာ ရေးခြင်း အလေ့ ပေါ်ပေါက်လာပုံမှာ ရှေးအခါက သားယောက်သမီးခံမရှိသူများသည် အမွေခံမရှိပါက မိမိတို့၏ အစဉ်အဆက် တိမ်ကောသွားမည်ကို အလွန်စိုးကြသည်။ ထိုကြောင့် မိမိတို့အား ဆက်ခံရန် အခြားသူတဦးတယောက်၏ သားသမီးအား မွေးစားနိုင်ခွင့်ကို ရှေးဥပဒေများက ခွင့်ပြုခဲ့၏။ ထိုအစဉ်အလာမှ ဆင်းသက်၍ နောင်အခါတွင် အမွေဆက် အမွေခံ မရှိသူတဦးသည် မိမိအမွေလွှဲအပ်ပေးလိုသူ တဦးဦးကို ရွေးချယ်လျာထား၍ ပေးခဲ့နိုင်လေသည်။ ထိုထက် တဆင့်တိုးတက်ပြုပြင်လာကြရာ လူတဦးတယောက်သည် မိမိတွင်ဇနီးနှင့် သားသမီးများ ရှိသော်လည်း သူတို့အတွက် မထောက်ထားပဲ၊ မိမိ၏ပစ္စည်းကို အခြားသူများနှင့် အခြားနေရာများတွင် ထင်သလို ခွဲဝေပေးနိုင်ခွင့် ရှိလာလေသည်။

အချို့ နိုင်ငံများ၌ ထိုကဲ့သို့ သေတမ်းစာ ရေးခွင့်ကို အချုပ်အခြယ်မရှိ၊ မိမိတို့ အလိုရှိသလို ပစ္စည်းများကိုခွဲဝေရန် ရေးသားထားနိုင်ခွင့် ရှိသည်။ ဤသို့ဖြင့် ချမ်းသာသော လူတဦးတယောက်၏ ဇနီးနှင့် သားသမီးတို့မှာ သေတမ်းစာတွင် ထိုသူ၏အမွေခံများအဖြစ် ပစ္စည်းခွဲဝေထားခဲ့ခြင်း မရှိခဲ့လျှင် တရားဥပဒေအရ ထိုဇနီးနှင့်သားသမီးတို့မှာ ပစ္စည်းလက်မဲ့ ဖြစ်ကြရလေသည်။ အင်္ဂလန်ပြည်တွင် ဤကဲ့သို့ပင် သေတမ်းစာကို အချုပ်အခြယ်မရှိ ရေးသားနိုင်ခွင့်ပေး၍ ထိုသေတမ်းစာအတိုင်း ဆောင်ရွက်နိုင်ခွင့်မှာ တရားဥပဒေနှင့် ညီညွတ်လေသည်။

သေတမ်းစာကို စာချုပ်သဖွယ် အသိသက်သေများ လက်မှတ်ထိုးကာ ပြုလုပ်ရ၏။ အသက် ၂၁ နှစ်မပြည့်သေးသော အရွယ်မရောက်သေးသူနှင့် စိတ်မနှံ့သူများမှတပါး အခြားမည်သူမဆို သေတမ်းစာ ရေးနိုင်ခွင့် ရှိလေသည်။ နောက်နောင်တွင် အရှုပ်အရှင်း မပေါ်ပေါက်စေရန်၊ သေတမ်းစာများကို သေချာကျန ရှင်းလင်း ပြတ်သားစွာ

ရေးသားရသည်။ ထို့ကြောင့် များသောအားဖြင့် တရား ဥပဒေ နားလည်သူ ရှေ့နေနှင့် ဝတ်လုံများကို သေတမ်းစာ များ ရေးသားခိုင်းလေ့ ရှိကြ၏။

ထိုနောက် ထိုသေတမ်းစာနှင့် စပ်လျဉ်း၍ အကျိုးခံစား ခွင့် မရှိသူ နှစ်ဦး၏ ရှေ့တွင် သေတမ်းစာရှင်က လက်မှတ် ထိုးရ၏။ ထိုသက်သေ နှစ်ဦးကလည်း ထိုသေတမ်းစာကို ဤနေ့ဤအချိန်တွင် မိမိတို့ရှေ့၌ ပြုလုပ်ကြောင်း အသိ အမှတ်ပြုကာ လက်မှတ်ထိုးကြရ၏။ သေတမ်းစာရှင်သည် မိမိ၏သေတမ်းစာအတိုင်း ဆောင်ရွက်ရန် ကိစ္စကို များ သောအားဖြင့် ရှေ့နေ၊ သို့မဟုတ် ဝတ်လုံတဦးဦးအား လွှဲ အပ်လေ့ရှိသည်။ သေတမ်းစာကို အချိန်မရွေး ရေးသား နိုင်၏။ ထပ်၍ပြင်ဆင်ခြင်း၊ အသစ်ရေးခြင်းလည်း ပြုနိုင် ၏။ သို့ရာတွင် စာတကြောင်းပင် ပြင်စေကာမူ မည်သည့် အခါက ပြင်ဆင်ကြောင်း အသိသက်သေများအား လက် မှတ်ရေးထိုးစေရပြန်သည်။

စစ်မြေပြင်တွင်တိုက်ပွဲဝင်နေသော ကြည်း၊ရေ၊လေတပ် သားများအဖို့ကား ဤသို့ ခိုင်လုံစွာ စာချုပ်ရေးသားရန် မလိုပေ။ မိမိတို့ အလိုရှိသလို ပစ္စည်းခွဲဝေပေးရန် နှုတ်နှင့် ပင် ပြောကြားနိုင်ပေသည်။ သေတမ်းစာတွင် မည်ကဲ့သို့ ပစ္စည်းခွဲဝေထားခဲ့ပုံကို အကျိုးကျေးဇူး ခံစားခွင့်ရှိသူတို့မှာ သေတမ်းစာရှင် ကွယ်လွန်ပြီးသည့်အခါ သေတမ်းစာကို ဖောက်၍ ဖတ်ပြီးမှသာလျှင် သိနိုင်ကြပေသည်။

**သေနတ်။** ။မီးပေါက်လက်နက် — ရှု။

**သေနတ်ပစ်ခြင်း။** ။သိပ္ပံပညာတိုးတက်မှုဖြင့်အမျိုးမျိုး သော သေနတ် လက်နက်များ ပေါ်ပေါက်လျက် ရှိပေရာ သေနတ်ပစ်ခြင်းအတတ်သည် လူတိုင်းတတ်ထားအပ်သော ပညာရပ်ဟု ယူဆသင့်ကြပေပြီ။ သေနတ်သည် ငှက်ပစ်ရာ တွင်ရင်း၊ တောအမဲ လိုက်ရာတွင်ရင်း၊ စစ်တိုက်ရာတွင်ရင်း အလွန် အသုံးဝင်သော လက်နက်ပင် ဖြစ်စေကာမူ မကိုင် တွယ်တတ်သူတို့အဖို့ ဘေးအန္တရာယ် များလှသော လက် နက်တမျိုး ဖြစ်၏။ သေနတ်ပြုလုပ်ထားပုံ သဘောကို နား မလည်သောကြောင့် ကိုင်တွယ်ရာတွင် သတိမရှိခြင်း၊ ပစ် ခတ် ရာတွင် မတတ်ကျွမ်းသောကြောင့် ရည်မှန်းရာသို့ မရောက်ခြင်း၊ မတော်တဆထိမှန်၍ သေဆုံးရခြင်း စသည် တို့ကို မကြာခဏ တွေ့ကြရ၏။ သို့ရာတွင် လူတိုင်းသည် အများ သုံးနိုင်သည့် သေနတ်ရိုးရိုးတို့ကို ကိုင်တွယ်ပစ်ခတ် နည်းကိုကား သိနားလည်ထားရန်များစွာလိုအပ်ပေသည်။ သာမန်အားဖြင့်ဆိုသော် သေနတ်ပစ်ခြင်းသည် ယမ်းထိုး မောင်းတင်၊ တည့်တည့်ချိန်၍ ခလုပ်ဖြုတ်ခြင်းမျှသာ ဖြစ် သဖြင့် အလွန်လွယ်ကူသည်ဟု ထင်ရလေသည်။ သို့ရာတွင်



သေနတ်ပစ်ရာတွင် သတိကောင်းခြင်း၊ တည်ငြိမ်ခြင်း၊ ဖျတ်လပ်ခြင်း နှင့် မျက်စေ့လျင်ခြင်းတို့နှင့် ပြည့်စုံရသည်။

စင်စစ်အားဖြင့် သေနတ်ကို စံနစ်တကျ ကိုင်တွယ် ပစ်ခတ် တတ်ရန်မှာ မလွယ်ကူလှချေ။ မိမိ ပစ်ခတ်မည့် သေနတ်၏ သဘောကို အတိအကျ နားမလည်သမျှ ကာလပတ်လုံး မည်သည့်အခါမျှ ထိရောက်စွာ အသုံးချ၍ ရမည်မဟုတ် သည်ကို တွေ့ရပေမည်။

လူတို့ အသုံးများသော သေနတ်များမှာ ကျည်စေ့ ကလေး များစွာပါသည့် ယမ်းတောင့်ထည့်၍ပစ်နိုင်သော ရိုးရိုး ငှက်ပစ်သေနတ်များ (နှစ်လုံးပူး၊ သို့မဟုတ် တလုံး ထိုးခါးချိုးသေနတ်များ)၊ အမဲလိုက်ရာတွင် အသုံးပြုသော ရိုက်ဖယ်ခေါ် ပြောင်းရစ်ပါသော သေနတ်များ၊ စစ်သုံး ရိုက်ဖယ်များ စသည်တို့ ဖြစ်၏။

သေနတ်ပစ်ရာ၌ အရေးကြီးသောအချက်မှာ သေနတ် ကိုင်သည့်လက် တည်ငြိမ်မှုပင် ဖြစ်၏။ မည်သည့်သေနတ် မျိုးကိုမဆို ကိုင်တွယ်ပစ်ခတ်ရာတွင် အလွန်တည်ငြိမ်စွာ ချိန်၍ ပစ်ခတ်နိုင်ရန် အရေးကြီးသည်။ သေနတ်များ၏ ပြောင်းလုံးပေါ်တွင်ချိန်သီးကလေးများပါရှိ၍ ယင်းချိန်သီး ကလေးများတွင်မိမိပစ်ခတ်လိုသော သားကောင်၊သို့မဟုတ် အရာဝတ္ထုတခုခုကို တည့်အောင်ချိန်ပြီးလျှင် သေနတ်ကို မလှုပ်ရှားစေပဲ ခလုပ်ဖြုတ်တတ်ဖို့ လိုသည်။ ချိန်သော အခါကပင် သေနတ်ကို ပခုံး၌ တင်းတင်းထောက်၍ ချိန်ရ သည်။ များသောအားဖြင့် သေနတ်များ၏ ပြောင်းထိပ်၌ ချိန်သီးထား၍ ပြောင်းနောက်ပိုင်းတွင် ထိုချိန်သီးနှင့်တည့် တည့်ချိန်ခွက်တခု တပ်ဆားတတ်၏။ ထိုချိန်သီး၊ ချိန်ခွက် နှင့် ပစ်လိုသည့်အရာဝတ္ထုကို တည့်မတ်အောင် ချိန်မိသော

အခါ လက်ကို ငြိမ်ငြိမ်ထား၍ ခလုပ်ကို ဖြုတ်ရ၏။ ထိုသို့ ငြိမ်ငြိမ်မထားပဲ ခလုပ်ကိုဆွဲလိုက်သော် မူလချိန်ထားသော ပြောင်းသည် တိမ်းစောင်းသွားနိုင်သည်။ ချိန်သီး၌ မီးခြစ်ဆံတလုံးစာမျှ ရွေ့ သွားခြင်းသည် ထိမှန်စေလိုသည့် နေရာနှင့် များစွာ ကွာသွားနိုင်လေသည်။ ကျည်စေ့ကလေးများစွာပါသောယမ်းတောင့် ထည့်၍ ပစ်ရာ၌ သေနတ်ကို ပစ်ရန် ချိန်ရာတွင် အနည်းငယ်တိမ်းစောင်းရုံမျှဖြင့် လုံးဝလွဲမသွားနိုင်ဟု ထင်ကြသော်လည်း ချိန်သီးမှ ဖယ်သွားသောအခါ မိမိပစ်လိုသော အရာဝတ္ထုတို့ကို တိုက်ရိုက်ထိမှန်နိုင်ရန် ခဲယဉ်းပေသည်။ ကျည်သည် ထိမှန်စေလိုသော အရာဝတ္ထုတို့မှ လွဲသွား၍ မထိမှန်စေလိုသော အရာတို့ကိုလည်း ထိမှန်တတ်သဖြင့် သေနတ်ကို စနစ်တကျ မကိုင်တတ်ခြင်းသည် အန္တရာယ်များသည်ဟု ဆိုကြခြင်း ဖြစ်၏။

ပြောင်းရစ်ပါသော ရိုက်ဖယ်သေနတ်များ၏ ကျည်ဆန်သည် အရှိန်ပြင်းစွာလည်၍ ထွက်သောကြောင့် ခရီးဝေးစွာ ရောက်သည်။ သို့ရာတွင် တည်ငြိမ်မှုမရှိသဖြင့် မိမိချိန်ထားသော အရာဝတ္ထုမှ လွဲသွားလျှင် အန္တရာယ်မကင်းလှချေ။ ထို့ကြောင့် ရိုက်ဖယ်များကို ကိုင်တွယ်ပစ်ခတ်ရာတွင် သတိပို၍ ထားရန်လိုသည်။

တောထဲ၌ အမဲပစ်ရာတွင် မည်သည့်သေနတ်မျိုးကိုမဆို အထူးသတိထား၍ ကိုင်တွယ်ရ၏။ အဘယ်ကြောင့် ဆိုသော် တောအမဲလိုက်ရခြင်းမှာ စက်ကွင်းကို ချိန်၍ ပစ်ရသကဲ့သို့ စိတ်၏ တည်ငြိမ်မှု၊ ကိုယ်၏တည်ငြိမ်မှု မရှိသောကြောင့်ပင် ဖြစ်၏။ အလွန်လျင်မြန် ဖျတ်လတ်ရန်လည်း လို၏။ လျင်မြန်ဖျတ်လတ်စွာ ပြုလုပ်ရသော အမှုများတွင် သတိမရှိက မကြာခဏ မတော်တဆ ထိခိုက်မှုများ ရှိတတ်သည်။ မိမိကိုင်တွယ် ပစ်ခတ်မည့် သေနတ်ကို ကောင်းစွာ နားလည်ထားခြင်း၊ ကျွမ်းကျင်နိုင်နင်းစွာ ပစ်ခတ်တတ်ခြင်း၊ သတိကောင်းခြင်း စသည်တို့မှာ လက်တွေ့အလေ့အကျင့် များစွာလိုသော အရည်အချင်းများ ဖြစ်ပေသည်။

မည်သည့်သေနတ်ကိုမဆို ကိုင်တွယ်ရာ၌ အထက်ပါ အရည်အချင်းများနှင့် ပြည့်စုံဖို့ အထူးလိုအပ်သည်။ စစ်တပ်များ၌ စစ်သုံးသေနတ်များ မပေးအပ်မီ ထိုသေနတ်များအကြောင်း သေချာစွာ နားလည်နိုင်စေရန် သင်ပြပြီးမှ ထုတ်ပေးလေသည်။ ထုတ်ပေးပြီးသော အခါတွင်လည်း စနစ်တကျ ပစ်ခတ်တတ်စေရန် ဘေးကင်းသော နေရာများ၌၊ သို့မဟုတ် ဘေးကင်းအောင် စီမံထားသော နေရာများ၌ ရှေးဦးစွာ လေ့ကျင့်စေလေသည်။ သေနတ်ကို စနစ်တကျ ကိုင်တတ်သောအခါ ကျင်လျင်မှုအတွက် စက်ကွင်းတွင်လေ့ကျင့်ရသည်။ ထိုသို့ စက်ကွင်းတွင် လေ့ကျင့်ခြင်းသည် သတိကောင်းခြင်း၊ တည်ငြိမ်ခြင်း၊ ဖျတ်လတ်ခြင်း၊ မျက်စိလျင်ခြင်း စသည်တို့နှင့် ပြည့်စုံစေလေသည်။ ဤကဲ့သို့ အမျိုးမျိုး စမ်းသပ်လေ့ကျင့်ပေးပြီးမှသေနတ်ကိုသုံးစွဲခွင့်ပြုလေသည်။ စစ်သားများနှင့် စစ်သုံးရိုက်ဖယ်များသာမက မည်သည့် အရပ်သားနှင့် မည်သည့် သေနတ်မျိုးကိုမဆို ဤကဲ့သို့ အဆင့်ဆင့် လေ့လာတတ်ကျွမ်းပြီးမှ ကိုင်တွယ် စေပါက ဘေးအန္တရာယ်ကင်း၍ သေနတ်သည် လူတို့၏ မိတ်ဆွေ သဖွယ် အကူအညီရသောလက်နက် ဖြစ်နိုင်ပေသည်။

**သေရည်သေရက်။** ။သောက်စား သူအား မူးယစ်၍ သတိတရား ယွင်းကင်း မေ့လျော့စေသော အရည်ကို သေရည်ဟု ခေါ်သည်။ သေရည်ဖြစ်ပေါ်လာပုံ အစကား ရှေးလွန်လေပြီးသောအခါ ဟိမဝန္တာ၌ သစ်ပင်တပင်တွင် လူတရပ်လောက်ရှိသော အရပ်ဝယ် သစ်ကိုင်း သုံးခွဆုံ အကြားတွင် အိုးစရည်းပမာဏ အခေါင်းတခုရှိ၏။ မိုးရွာသောအခါ ထိုအခေါင်းသည် ရေဖြင့် ပြည့်လျှက် ရှိနေလေသည်။ ထိုသစ်ပင်ကြီးကိုရံလျက်ပေါက်နေကြသော သဖန်း၊ သျှစ်သျှား၊ ငြုတ်ချုံပင်တို့မှ အသီးမှည့်တို့သည် ကြွေလွင့်ကာ မိုးရေပြည့်သော သစ်ခေါင်းကြီးထဲသို့ ကျ၏။ ထိုသစ်ပင်ကြီး၏အနီး အလေ့ကျ ပေါက်သော သလေးစပါးခင်းမှလည်း သလေးနှံများကို ငှက်တို့ ချီယူစားကြရာမှ သစ်ခေါင်းထဲသို့ သလေးနှံများလည်း ကျ၏။ ဤသို့ ရသာစုံရောလျက်ရှိသောရေသည် နေပူဖြင့် ကျက်လေရာ ဆေးပေါက်၍ နီရောင်ပြေးလာ၏။

နွေလအခါ ငှက်တို့သည် ရေငတ်သည်ရှိသော် ထိုသစ်ခေါင်းရေကိုသောက်ရာ မူးယစ်၍ အထက်သို့ ပျံပြီးလျှင် သစ်ပင်ရင်း၌ ကျကုန်၏။ အတန်ငယ် အိပ်ပျော်ပြီးလျှင် တွန်မြူးကာ တဖန် ထ၍ ပျံကြကုန်၏။ သစ်ပင်ထက်၌ မျောက်တို့လည်း ထိုအတူသာ ဖြစ်နေကြလေသည်။ တနေ့သောအခါ ထိုသစ်ပင်ရင်းသို့ မုဆိုးတယောက်ရောက်လာ၍ ထိုအခြင်းအရာကို မြင်လျှင် အဆိပ်ရည်မဟုတ်တန်ရာဟု ဆင်ခြင်ပြီးလျှင် အနည်းငယ် ခတ်၍ သောက်လေသည်။ မုဆိုးလည်း မူးယစ်ကာ အလွန်ကျေနပ်လှသဖြင့် ထိုအရပ်တွင် တရက်နှစ်ရက်နေ၍ စားသောက် နေလေသည်။ ထိုမုဆိုးမှတဆင့် အရပ်ရပ်သို့ ပြန့်နှံ့ကာ သေရည်ကို ချက်၍ သောက်စားလာကြလေသည်။

သေရည်သေရက်တွင် မူးယစ်စေသော အရက် ပါရှိရာ အချို့ ဖြစ်ရည်တွင် အနည်းဆုံး အရက် နှစ်ရာခိုင်နှုန်းမျှ ပါရှိ၍ အချို့အလွန်ပြင်းသော ဝီစကီ၊ ဗရန်ဒီတို့တွင်ကား ၆၈ ရာခိုင်နှုန်းထိ ပါရှိလေသည်။ ဤသေရည်များတွင် ပါဝင်သော အရက်သည် ဂျုံ၊ ပြောင်း၊ မုယော၊ ဆန်၊ အာလူး၊ စပျစ်သီး စသော အသီးအနှံများမှ ရသော သကြားများ ထဲသို့ တဆေးထည့်ပြီးလျှင် ကဇော်ဖောက်ရာမှ ရရှိလာခြင်းဖြစ်သည်။ အချို့အရက်များကို သစ်သီးများ၊ သို့

ဝိုင်အရက်သည် စပျစ်သီးနှင့် အခြား အသီးများမှ ရသော အရည်ကို ကဇော်ဖောက်ထားခြင်းဖြစ်သည်။ စပျစ်သီးများကို အစေ့မကြေအောင် လှိမ့်တုံးနှစ်ခုဖြင့် ခြေပြီးလျှင် အရည်ကို ထုတ်ယူ၏။ ထိုအရည်ကို ကဇော်ပေါက်လာအောင် ရက်ပေါင်း အတော်ကြာ ထားသောအခါ ဝိုင်အရက်ဖြစ်လာလေသည်။ ဝိုင်အရက်တွင် မူးယစ်စေသော အရက်ရာခိုင်နှုန်း ရှစ်မှ ၁၄ အထိ ပါဝင်သည်။ ဝိုင်အရက်သည် ပဌမတွင် ပြင်သစ်၊ ဣတလီ၊ ဂျာမနီ၊ ဟန်ဂေရီ၊ စပိန်နှင့် ပေါ်တူဂယ်နိုင်ငံများတွင် အလွန်ကျော်ကြားခဲ့သည်။

ပေါင်းချေး ခံယူရသော သေရည်သေရက်များသည် တရုပ်လူမျိုးများက စတင်ပြုလုပ်ခဲ့သည်ဟု ယုံကြည်ရသည်။ တရုပ်လူမျိုးတို့သည် ဆန်မှ အလွန်ပြင်းသော သေရည်ကို ခရစ်မပေါ်မီ ကတည်းကပင် ပြုလုပ်ခဲ့ကြသည်။ မြန်မာလူမျိုးတို့ ချက်လုပ်သည့် အရက်များမှာ အထူးသဖြင့် ကောက်ညှင်းနှင့် ထန်းလျက်တို့ကို ကဇော် ဖောက်၍ ပေါင်းခံယူသော အရက်များဖြစ်ကြသည်။ ဝီစကီနှင့် ဗရန်ဒီ အရက်များသည် ဥရောပတိုက်တွင် ပဌမဆုံး ပေါင်းခံယူသော သေရည်များ ဖြစ်ကြသည်။

ဗရန်ဒီ အရက်သည် ဝိုင်အရက်ကိုသော်၎င်း၊ သို့မဟုတ် စပျစ်သီး၊ ပန်းသီး၊ သစ်သော့သီး စသော အသီးများ၏ အရည်ကိုသော်၎င်း ပေါင်းခံယူသော သေရည်ဖြစ်သည်။ ဗရန်ဒီတွင် မူးယစ်စေသော အရက်ရာခိုင်နှုန်း ၄၅ မှ ၅၅ ထိ ပါသည်။ ဝီစကီအရက်သည် ပြောင်း၊ မုယော၊ ဂျုံ၊ ရိုင်းစပါး စသော ကောက်နှံများ၏ ကဇော် ဖောက်ပြီးသော အရည်ကို ပေါင်းခံယူသော အရက်ဖြစ်သည်။ ယင်းတွင် မူးယစ်စေသော အရက် ရာခိုင်နှုန်း ၄၀ မှ ၅၄ အထိ ပါဝင်သည်။ ဝီစကီအရက်ကို ၁၂ ရာစုနှစ်က အိုင်ယာလန်နှင့် စကော့တလန်ပြည်များတွင် ပဌမဆုံး ပြုလုပ်ကြသည်။ ရမ်အရက်ကို ရှေးအခါကတည်းကပင် ကြံနှင့် ဆန်မှ ပေါင်းခံယူကြသည်။ ဖော်ပြခဲ့သော ပြင်းသော အရက်များအပြင် လှော်ဇာရည်၊ စိမ်ရည် စသည့် ရိုးရိုးတဆေးဖြစ် ကဇော်ဖောက်ပြီး ပြုပြင်ယူသော သေရည်များလည်း ရှိသည်။ ထိုပြင် ထန်းရည်၊ ဓနိရည်စသော သစ်ပင်မှ သဘာဝအလျောက် ထွက်သည့် ချိုမြိန်သော အရည်ကို မူးယစ်စေတတ်သော သေရည်အဖြစ်သို့ ပြောင်းလဲ ပြုပြင်ထားသည့် သေစာများလည်း ရှိပေသေးသည်။

အရက်သေစာ သောက်စားခြင်းသည် လူ့အသိဉာဏ်ကို ယုတ်လျော့စေ၍ ပညာအမြော်အမြင် ဆင်ခြင်တုံတရား ကင်းကွာစေရကား မျက်မှောက်လောက၌ ဖုဇဝတ်မှုအမျိုးမျိုး ကျူးလွန်အောင် လှုံ့ဆော်ပေးနိုင်သည်။ အရက်သေစာ သောက်လိုက်သောအခါ ဦးကျောက်ကြောများကိုတိုက်ရိုက်သွား၍ထိခိုက်သည့်ပြင် နှလုံးသားနှင့်တကွ

မဟုတ် ကောက်နှံများ ကဇော်ဖောက်ပြီးမှ ပေါင်းတင်၍လည်း ရရှိလေသည်။ ရှေးဗက်ဗီလုံး လူမျိုးတို့သည် ဖြစ်ရည်ကို မုယောပင်ပေါက်မှ ပြုလုပ်ယူကြောင်း မှတ်တမ်းများ တွေ့ရှိရသည်။ ဝိုင်အရက်ကို အီဂျစ် လူမျိုးတို့က စတင်ပြုလုပ်ခဲ့သည်ဟု ဆိုသည်။

ကဇော်ဖောက်၍ရသော သေရည်သေရက်များမှာ များသောအားဖြင့် ဖြစ်ရည်နှင့် ဝိုင်အရက်များ ဖြစ်ကြသည်။ ဥရောပအလယ်ပိုင်းတွင် ဖြစ်ရည်လုပ်ငန်းသည် ၁၃ ရာစုနှင့် ၁၄ ရာစုနှစ်များ၌ အကြီးအကျယ်ဆုံး လုပ်ကိုင်ခဲ့သည်။ ယခုခေတ် ဖြစ်ရည်များထဲတွင် များသောအားဖြင့် အရက်ရာခိုင်နှုန်း နှစ်မှ ခြောက်အထိ ပါရှိကြသည်။ ဖြစ်ရည်ချက်သည့် နည်း အမျိုးမျိုး ရှိသည်တွင် များသောအားဖြင့် မုယောပင်ပေါက်မှ ပြုလုပ်ယူကြသည်။ တခါတရံ ပြောင်းနှင့် စပါးပင်ပေါက်များမှလည်း ပြုလုပ်ယူကြသည်။ လုပ်နည်းမှာ မုယောကို ပဌမ ရေတွင် ၄၇ နာရီမှ ၇၆ နာရီထိ စိမ်ထားရသည်။ အနည်းဆုံး တနေ့တခါ ရေဟောင်းကို သွန်၍ ရေသစ်ထပ်၍ ထည့်ပေးရ၏။ မုယောများ ပျော့လာသောအခါ ကြမ်းပေါ်တွင် ပုံထားလိုက်က အပင်ပေါက်ကလေးများ စထွက်လာ၏။ ယင်းသို့ အပင်ပေါက်ကလေးများထွက်လာသောအခါ ခပ်ထူထူ ဖြန့်ပေးရပြန်၏။ အပင်ပေါက်များ မုယောနှံထက် သုံးပုံနှစ်ပုံခန့် ရှိလာသောအခါ နောက်ထပ် မပေါက်စေရန် မီးဖိုကြီးတွင် ထည့်၍ လှော်လိုက်ရသည်။ ထိုနောက် မုယောပင်ပေါက် အခြောက်ကို သံလှိမ့်တုံးများတွင် ထည့်၍ ကြိတ်ရပြန်သည်။ အမှုန့်ကို ရေနှင့် ရော၍ မပြစ်စေရန် ရေနွေးထည့်ပေးရသည်။ အပူချိန် ၁၄၅ ဖာရင်ဟိုက်သို့ရောက်သောအခါ မကြာမကြာ မွှေပေးရ၏။ အပူချိန်ကို ၁၆၀ ဖာရင်ဟိုက်ထိ ထားပေးပြန်သည်။ ထိုအခါ ဝေါ့ခေါ် မုယောပင်ပေါက်ရည် ရရှိလာလေသည်။ ထိုအရည်ကို ငှဲ၍ ယူထားလိုက်၏။

ထိုနောက် မုယောပင်ပေါက်ရည်ထဲသို့ ဖြစ်ရည်ခတ်ဆေးနွယ်ပင်မှ အပွင့် ခြောက်များကို ထည့်၍ တနာရီမှ ခြောက်နာရီထိ ချက်ရသည်။ မုယောပင်ပေါက်ရည် ဂါလံ ၁၀၀ တွင် ဖြစ်ရည်ခတ်ဆေးနွယ်ပွင့်ခြောက် တပေါင်မှ ၁၂ ပေါင်ထိ ရောပေးနိုင်သည်။ ချက်ပြီးသော မုယောပင်ပေါက်ရည်ကို အအေးခံပြီးလျှင် ကဇော်ဖောက်ရန် စည်များတွင် ထည့်ထားလေသည်။ ထိုနောက် မုယောပင်ပေါက်ရည် ဂါလံ ၁၀၀ တွင် တဆေး ငါးပေါင်ခန့် ထည့်၍ ရက်အနည်းငယ်မျှ ကြာအောင် ကဇော်ဖောက်ထားလေသည်။ အပေါ်ယံတက်လာသော တဆေးကိုခပ်ပစ်ပြီးနောက် ကျန်သော အရည်ကား ဖြစ်ရည်ပင် ဖြစ်လေသည်။ ထိုနောက်ပုလင်းများတွင် မထည့်မီ စည်ကြီးများတွင် ထည့်၍ နှစ်ချီအောင် သိုလှောင်ထားတော့၏။

တကိုယ်လုံးရှိ ကြွက်သားနှင့် အကြောတို့ကို အားလျော့စေသဖြင့် ကျန်းမာရေးကိုလည်း များစွာ ထိခိုက်စေလေသည်။ သေရည် သေရက် သောက်စား မူးယစ်သော သူသည် မျက်မှောက်ပစ္စုပ္ပန်ဘဝ၌ ဥစ္စာဆုတ်ယုတ်ခြင်း၊ ငြင်းခုံများခြင်း၊ ရောဂါထူပြောခြင်း၊ အကျော်အစောမရှိခြင်း၊ အင်္ဂါမလုံခြင်း၊ ပညာနည်းခြင်း စသည့် အပြစ်ခြောက်ပါးကို လက်ငင်းခံစားရသည်။ သေသည်၏အခြားမဲ့၌ ငရဲကြီး ငရဲငယ်တို့တွင် ခံရခြင်း၊ တိရစ္ဆာန်ဖြစ်ရခြင်း၊ ပြိတ္တာဖြစ်ရခြင်း၊ အကယ်၍ လူ့ပြည်လောက၌ လူဖြစ်ပါသော်လည်း ရူးသွတ်ရခြင်း၊ စိတ်မတည်တံ့ပဲ ပျံ့လွင့်သော စိတ်ရှိခြင်း၊ ဆွံ့အခြင်း၊ ထစ်ငေါ့ခြင်း၊ ပါးစပ်မှ အရည်ယိုကျခြင်း၊ ငယ်စဉ်ကပင် မိုက်မဲတွေဝေခြင်းများ ဖြစ်ရကြောင်း ဘုရားရှင် ဟောတော်မူခဲ့လေသည်။

**သယ်စက် တင်စက်။** ။သိပ္ပံပညာရပ်များသည် အစဉ်တိုးတက် ထွန်းကားနေလေရကား စက်ကရိယာများကိုလည်း အမျိုးမျိုး ကြံစည် တီထွင်လျက် ရှိကြလေသည်။ ရှေးအခါက အလုပ်သမားပေါင်း မြောက်မြားစွာကို အသုံးပြုပြီး သယ်ယူ ရွှေ့ပြောင်းရသော ကုန်ပစ္စည်းများကို ယခုအခါတွင် သယ်စက်တင်စက်များဖြင့် အလွယ်တကူ သယ်ယူရွှေ့ပြောင်းနိုင်ပြီ ဖြစ်သောကြောင့် အချိန်လည်း နည်း၊ စရိတ်လည်းနည်း၊ လူလည်း အနည်းငယ်နှင့် မပင်မပန်း လုပ်ကိုင်သွားနိုင်ပြီ ဖြစ်လေသည်။ သယ်စက်ကို တပြင်တည်းရှိ ပစ္စည်းများကို တနေရာမှ တနေရာသို့ ရွှေ့ပြောင်းလိုသည့်အခါတွင် အသုံးပြု၍ တင်စက်ကိုကား အနိမ့်တွင်ရှိသော ပစ္စည်းများကို အမြင့်သို့ တင်လိုသည့်အခါတွင် အသုံးပြုလေသည်။ ဆန်စက်ကြီးများတွင် စပါးများကို အောက်မှ အထက် အထပ်ထပ်သို့ တင်ပို့ရာတွင် တင်စက်များဖြင့် သယ်ယူတင်ပို့ကြလေသည်။

အမြင့်သို့ ကုန်ပစ္စည်းများကို ဤသို့တင်ပို့သည့် တင်စက်များ အပြင် အထပ်ပေါင်း မြောက်မြားစွာ ရှိသည့် အဆောက်အအုံကြီးများတွင် နေထိုင်သူများအား သွားလိုသည့် အထပ်များသို့ ပို့ပေးနိုင်သော ဓာတ်လှေကား တမျိုးလည်း ရှိသေး၏။ ထိုဓာတ်လှေကားများသည် လျှပ်စစ်ဓာတ်အားဖြင့် လူများကို တင်ပို့လျက် ရှိလေသည်။

အချို့သော နိုင်ငံကြီးများရှိ မြို့ကြီးများတွင် မြေအောက်၌ ဓာတ်ရထားလမ်းများ ဖောက်၍ တွဲဆက်ဓာတ်ရထားများ သွားလာလျက် ရှိသည်။ ထိုမြေအောက်ဓာတ်ရထားများမှ သာမန် မြေပြင်ပေါ်သို့ တက်လိုသောအခါများတွင် တက်လာလိုသူသည် လှေကားထစ် တခုပေါ်သို့ တက်ရပ်လိုက်ရန်မျှသာဖြစ်ပြီးလျှင် ဓာတ်အားဖြင့် ထိုလှေကားသည် အပေါ်သို့ တက်လာလေသည်။မြေမျက်နှာပြင်သို့ ရောက်သောအခါမှသာလျှင် ခြေကို လှမ်းကာ လိုရာသို့ သွားနိုင်ကြလေသည်။ ထိုကဲ့သို့သော လှေကားများကို လှေကားရှင် (အက်စကာလေးတား) ဟု ခေါ်ကြသည်။ (ဓာတ်လှေကား — လည်းရှု။)

မျက်နှာပြင် တပြင်တည်း၌ ရှိသော ပစ္စည်းများကို တနေရာမှ တနေရာသို့ ပို့ရာတွင် အသုံးပြုသည့် သယ်စက်များသည် သယ်ပို့လိုသည့် ပစ္စည်းကို လိုက်၍ ပုံအမျိုးမျိုး ရှိကြ၏။ အများအပြား အသုံးပြုသည့် ပုံတမျိုးမှာ အဆက်မပြတ် သွားနေသော သားရေပတ်ပါရှိသည့် ပုံမျိုးဖြစ်သည်။ ထိုသားရေပတ်သည် တဖက်စွန်းတွင် စက်သီးကဲ့သို့ လည်နေသော ဘီးနှင့် အခြား တဖက်စွန်းတွင် သားရေပတ် ထွက်မသွားနိုင်ရန် ထိန်းထားသော ဘီးများပေါ်တွင် သွားလျက်ရှိလေသည်။ သယ်ယူလိုသော ပစ္စည်းများကို အထိန်းဘီးဖက်မှ တင်၍ အခြား စက်သီးဘီးဖက်မှ ချယူနိုင်လေသည်။ သားရေပတ်ကို စက်သီးဘီးနှင့် အထိန်းဘီးများ အကြားရှိ ဒလိမ့်တုံးများဖြင့် ထိန်းထားသည့်ပြင် မြောင်းပုံသဏ္ဍာန်ဖြစ်အောင်လည်း ပြုလုပ်ထားသေးသည်။ ထိုကဲ့သို့ ပြုလုပ်ထားသဖြင့် တင်လိုက်သည့် ပစ္စည်းများသည် ကျနိုင်တော့မည် မဟုတ်ချေ။ ကုန်များချပြီး၍ သားရေပတ် ပြန်လာသောအခါ အထိန်းဘီးများပေါ်မှ လာရသည်။

ပစ္စည်းများကို ချလိုသည့်နေရာတွင် ချနိုင်ရန်လည်း စီမံထားကြသည်။ ပစ္စည်းချနိုင်ရန် ပြုလုပ်ထားသော အရာတွင် ဖောင်အရှင်တခုရှိရာ ထိုဖောင်ရှင်၏ အထက်နှင့် အောက်ပိုင်းတွင် ပြောင်းပြန် လည်နေသော ဒလိမ့်များ တပ်ဆင်ထားလေသည်။ အထက် ဒလိမ့်သို့ မရောက်မီ သားရေပတ်သည် တဖြည်းဖြည်း လက်မ ၂၀ ခန့် မြင့်တက်သွား၏။ ထိပ်သို့ ရောက်၍ ကုန်များ ချပြီးသောအခါ သားရေပတ်သည် တဖန် အောက်ဒလိမ့်တုံးသို့ ဆင်းလာပြန်သည်။ ယင်းသို့ဖြင့် သားရေပတ်သည် အထက်ဒလိမ့်တုံးနှင့် အောက်ဒလိမ့်တုံး ကြားတွင် ကွေ့ကောက်၍ သွားနေမည် ဖြစ်သည်။ ထိုနောက်မှ တဖန် သွားစဉ်အတိုင်း ဆက်၍သွားနေပြန်လေသည်။

ကောက်နှံများကို သယ်ယူပို့ဆောင်ရာတွင် ဘီးများပေါ်တွင် သွားနေသည့် သားရေပတ်သည် ချည်ဖြင့်ပြုလုပ်ထားသည့် ရွက်ထည်ဖြစ်၍ ထိုရွက်ထည်ကို ကြက်ပေါင်စေးဖြင့် ဖုံး၍ ထားလေ့ရှိကြသည်။ အရှည်မှာ လိုသလို ပေတရာမှ ပေတထောင်အထိ ရှည်တတ်ကြ၍ အကျယ်မှာ ၁၀ လက်မ မှ ၄၅ လက်မအထိ ရှိတတ်ကြသည်။ သို့သော် ကျောက်မီးသွေး၊ မီးဖုတ်ကျောက်မီးသွေး၊ သဲနှင့် အခြားမသော ပစ္စည်းများကို တင်ဆောင်သယ်ယူသော သားရေပတ်မှာကား တခုနှင့်တခု ဆက်၍ထားသော သံမဏိ




လူအနည်းငယ်နှင့် မပင်မပန်း သယ်ယူရွှေ့ပြောင်းပေးနိုင်သော စက်

ပြားများ ဖြစ်တတ်သည်။ အင်္ဂလန်နှင့် အမေရိကန်နိုင်ငံရှိ အချို့မြို့ကြီးများတွင် ခေတ်သစ်နည်းများဖြင့် စီမံထားသည့် လေအားကို အသုံးပြုသော နျူမက်တစ်ပြွန်ကြီးများကို အသုံးပြုကြ၏။ သင်္ဘောကြီးများဝမ်းထဲ၌ ရှိသည့် တန်ပေါင်းများစွာသော ဂျုံ၊ ဆန်၊ ပြောင်းနှင့် အခြားကောက်နှံများကို ထိုလေစုတ်ပြွန်ကြီးများဖြင့် စုတ်တင်ယူနေသည်ကို တွေ့နိုင်ကြသည်။ ထိုပြင် အဆက်မပြတ် လည်လျက် ရှိသည့် ပုံးကြီးများဖြင့် စက်ကြီးများ၏ အောက်မှ အထက်ဆုံး အထပ်များသို့ ပို့နေသည်ကိုလည်း တွေ့နိုင်ကြသည်။ ကောက်နှံများကို သင်္ဘောကြီးများထဲတွင် တာရှည် ဆက်လက် ထားရှိနေပါက ယိုယွင်းပျက်စီးတတ်သဖြင့် အချိန်မနှောင်းမီ သယ်ယူတင်ပို့ရန် အထူးလိုအပ်လှပေသည်။

ထိုသို့ အရေးကြီးမှန်းသိကြသဖြင့် လေအားကို အသုံးပြုသည့် ပြွန်များကို တီထွင်၍ အသုံးပြုကြခြင်း ဖြစ်သည်။ ထိုပြွန်များကို အသုံးပြုသဖြင့် ကုန်ပစ္စည်းများကို လျင်မြန်စွာ သယ်ယူနိုင်ပြီးလျှင် လက်နှင့်ပင် မထိရသဖြင့်လည်း ထိုကုန်ပစ္စည်းများမှာ သန့်ရှင်း စင်ကြယ်လေသည်။ ဤသို့သော အကြောင်းများကြောင့်ပင် အစဉ်မပြတ် လည်လျက်ရှိသည့် ပုံးကြီးများဖြင့် အလွန်မြင့်သော စက်ရုံကြီးများသို့ ကုန်ပစ္စည်းများကို ပို့ပေးလျက် ရှိကြလေသည်။ သို့မဟုတ်လျှင် လူအမြောက်အမြားကို စက်ကြီးများ၏ တထပ်မှ တထပ်သို့ တင်ပို့ရာတွင် အသုံးပြုရမည် ဖြစ်သဖြင့် အချိန်ကုန်လူပန်း ဖြစ်ရပေမည်။

**သယ်ယူပို့ဆောင်ရေး။** ။လူများကို တနေရာမှ တနေရာသို့ ပို့ဆောင်ခြင်း၊ကုန်ပစ္စည်းများကို တနေရာမှ တနေရာသို့ ရွှေ့ပြောင်းသယ်ယူခြင်း စသည့် ကိစ္စတို့ကို သယ်ယူပို့ဆောင်ရေးဟု ခေါ်သည်။ ယင်းသို့ သယ်ယူပို့ဆောင်ရေးမှာ အလွန်ရှေးကျသော လူရိုင်းများခေတ်ကပင် ရှိခဲ့လေသည်။ လူရိုင်းများသည် တနေရာမှ တနေရာသို့ ခြေကျင်ခရီးဖြင့် မိမိတို့ဝန်ထုပ် ဝန်ပိုးများကို ကျောထက်၌ သယ်




သိပ္ပံခေတ်သယ်ယူပို့ဆောင်ရေး ယာဉ်များသည် အချိန်မည်မျှသက်သာ၍ ခရီးပိုမိုသွားနိုင်ပုံကို ပြသထားသည့် နှိုင်းယှဉ်ချက်

ဆောင်ကာ ရွှေပြောင်း ကြရ၏။ ဤကား သူတို့ခေတ်ကာလ၏ သယ်ယူပို့ဆောင်ရေး နည်းတမျိုးပင် ဖြစ်သည်။ လူရိုင်းများ၏ နည်းမှာ ယခုကာလ သယ်ယူနည်းများနှင့် ယှဉ်သော် အလွန်နုံဖျင်း ရှေးကျသည်ဟု ဆိုရပေမည်။ ထိုနောက်မှ ဘီးတပ် ယာဉ်ကြမ်းများ ပေါ်လာ၍ နွား၊ မြည်းတို့နှင့် ဆွဲ၏။ တဖန် မြင်း၊ ကုလားအုပ်၊ ဆင်စသည်တို့နှင့် ဆွဲကြရပြန်လေသည်။ နေရာ ဒေသ ဥတုရာသီအလျောက် သင့်တော်ရာကို သုံးကြရ၏။ နောက်တွင်လည်း လှေကြမ်းမှ လှေချော၊ ရွက်လှေ၊ စက်လှေကြီးများ စသည်ဖြင့် အဆင့်ဆင့် တိုးတက် တီထွင်လာကြလေသည်။ ၁၈ နှင့် ၁၉ ရာစုနှစ်များတွင်ကား သယ်ယူပို့ဆောင်ရေးသည် အကြီးအကျယ် တိုးတက်လာခဲ့လေသည်။ သို့ရာတွင် ခေတ်တခေတ်မှ တခေတ်သို့ ကူးပြောင်းလာတိုင်း လူတို့ ကြံစည် တီထွင်ကြခြင်းဖြင့် သယ်ယူပို့ဆောင်ခြင်းများမှာ အလွန်တိုးတက် ခေတ်မှီနေသည်ကို တွေ့ရလေ၏။ နောင် အနာဂတ်ခေတ်၌ အဘယ်မျှ တိုးတက်ဦးမည်ကို ကျွန်ုပ်တို့ မခန့်မှန်းနိုင်ပေ။

လူတို့ မည်သည် တနေရာမှ တနေရာသို့ အလွယ်တကူ သွားလာနိုင်မှ တိုးတက်မြဲ ဖြစ်၏။ မိမိတို့နေရာမှ အခြားနေရာသို့ မသွားနိုင်သော လူများသည် အခြားလူများနှင့် အဆက်အသွယ်ပြတ်၍ အကြားအမြင် ဗဟုသုတ မရှိပဲ အောက်ကျ နောက်ကျ ဖြစ်နေမည် ဖြစ်၏။ ရှေးအခါက အာဖရိကတိုက်ကြီးသည် ကာလကြာမြင့်စွာ အမှောင်ထဲ ရောက်နေခြင်းမှာ အတွင်းပိုင်းသို့ တိုင်းတပါးမှ လူများ သွားလာရန် အလွန်ခက်ခဲသောကြောင့် ဖြစ်၏။ ဥရောပတိုက်သားများ ရောက်သွား၍ အရပ်ရပ်တွင် လမ်းဖွင့်ပေးသောအခါမှ အာဖရိကတိုင်းရင်းသားများသည် ကြီးပွားတိုးတက်လာခဲ့၏။

သယ်ယူပို့ဆောင်ရေး မရှိခဲ့ပါက ကျွန်ုပ်တို့၏ လူမှုဆက်ဆံရေး လမ်းစဉ်ကြီးသည် တည်တံ့တော့မည် မဟုတ်ပေ။ တနေရာမှ တနေရာသို့ သွားနိုင်သော လမ်းများ၊ သွားရာ၌ အသုံးပြုရမည့် ယာဉ်ရထားများ ရှိခြင်းကြောင့် ကျွန်ုပ်တို့ စားရေး၊ ဝတ်ရေး၊ သုံးဆောင်ရေးတို့၌ အခက်အခဲ မတွေ့ရချေ။ ထိုကြောင့် သယ်ယူပို့ဆောင်ရေးသည် လူတို့ အနေအထိုင် တည်တံ့မှု၏ အရင်းခံအကြောင်းကြီး ဖြစ်ပေသည်။ ကိုယ်ခန္ဓာတွင်း၌ သွေးလွှတ်ကြောတို့သည် အစိတ်အပိုင်း အသီးအသီးသို့ သွေးကိုရောက်အောင် ပို့ပေးသကဲ့သို့ သယ်ယူပို့ဆောင်မှုပြုနေသော ယာဉ်ရထား လမ်းကြောင်းများသည်လည်း တကမ္ဘာလုံးရှိ လူတို့ထံသို့ ကုန်ပစ္စည်း အမျိုးစုံကို ရောက်အောင် ပို့ပေးနေလေသည်။ ဤသို့ သယ်ယူပို့ဆောင်ရေး ရှိနေခြင်းကြောင့် လူများသည် အဖက်ဖက်၌ အခက်အခဲမတွေ့ရပဲ ပြေပြစ်ချောမောစွာ လူမှုရေးရာ ဆက်ဆံခွင့်ကြီးကို ရရှိနေသဖြင့် ထိုအရေးသည် လူတို့အတွက် မည်မျှ အဖိုးထိုက်တန်ကြောင်း သိသာလှပေသည်။

သို့ဖြစ်၍ တိုးတက်လျက် ရှိသော နိုင်ငံတိုင်း မီးရထားလမ်း၊ မော်တော်ကားလမ်းနှင့် တူးမြောင်းများကို ဖောက်လုပ်ထားကြရ၏။ အရောင်းအဝယ်နှင့် စက်မှုလက်မှု လုပ်ငန်းများတိုးတက်ရန် ကုန်းလမ်း၊ ရေလမ်းများရှိရုံနှင့် မပြီးသေးချေ။ ကုန်များကို သယ်ယူပို့ဆောင်ဖြန့်ဖြူးရာ၌ လျင်မြန်စေရန် ရေနွေးငွေ့ဖြင့် မောင်းနှင်ရသော မီးရထားနှင့် မီးသင်္ဘောတို့ကို ကြံစည် လုပ်ကိုင်ကြသည်။ ယခုအခါ ကမ္ဘာပေါ်ရှိ နိုင်ငံအသီးအသီးတွင် မီးရထားဖြင့် ဝေးလံသော အရပ်များမှ ကုန်ပစ္စည်းများကို သယ်ယူကြရသည်။ မီးရထားများ ပေါ်လာသဖြင့် တိုင်းနိုင်ငံတခုအတွင်း လူများတော်ပြတ်နေသော နေရာသို့ အခြား နေရာများမှ စားနပ်ရိက္ခာများကို ပို့ပေးနိုင်သည်။ တနိုင်ငံနှင့် တနိုင်ငံ ကုန်ပစ္စည်းချင်း ဖလှယ်ရာ၌ကား မီးရထားထက် မီးသင်္ဘောက ပို၍ ခရီးရောက်လေသည်။

သင်္ဘောသည် ရေကြောကို ရှုံ့နိုင်၍ မီးရထား၊ မော်တော်ကားတို့သည် မြေကြောကို ရှုံ့နိုင်သည်။ ရေကြော မြေကြော နှစ်ခုစလုံးကို ရှုံ့နိုင်သောယာဉ်ကား လေယာဉ်ပျံ ဖြစ်သည်။ လေယာဉ်ပျံမှာ ရေမြေ တောတောင်တို့ကို ကျော်ဖြတ် ပျံသန်းနိုင်သဖြင့် မီးသင်္ဘော၊ မီးရထားတို့ထက် များစွာ အဖိုးတန်သည်။ ပို၍လည်း မြန်သည်။ ကုန်းလမ်း ရေလမ်းမရှိသေးသော နေရာများ၌၎င်း၊ ရှိပြီး လမ်းပန်း အဆက်အသွယ် ပျက်နေသော အခါ၌၎င်း လေယာဉ်ပျံ သာလျှင် အားထားရာ ရှိသည်။ ယခုခေတ်မှာ အပြိုင်အဆိုင်ခေတ်၊ အမြန်ခေတ် ဖြစ်နေသောကြောင့် ကူးသန်း ရောင်းဝယ်ရာ၌ လေယာဉ်ပျံမှာ များစွာ အရေးပါအရာ ရောက်လာသည်။ မြန်မာနိုင်ငံ၌ ပြည်တွင်း လေကြောင်း သယ်ယူပို့ဆောင်ရေးမှာ အရေးကြီးလာ၍ အစိုးရ ကိုယ်တိုင်က ချဲ့ထွင်လုပ်ကိုင်လျက် ရှိသည်။

တနေရာမှ တနေရာသို့ ကူးသန်းသွားလာမှု၊ သယ်ယူပို့ဆောင်မှုတို့ တိုးတက်လာသော ယခုခေတ်မျိုး၌ ခရီးဘာများ ပြောင်းလွဲသွား၏။ ရှေးယခင်က လမ်းလျှောက်၍၎င်း၊ မြင်းစီး၍၎င်း အချိန်ကြာမြင့်စွာ သွားရမည့် ခရီးကို ယခုအခါ ယာဉ်ရထားတခုခုဖြင့် မိနစ်အနည်းငယ်အတွင်း သွားရောက်နိုင်လေပြီ။ ထိုကြောင့် ရန်ကုန်နှင့် မန္တလေးမှာလည်း ဘာမျှ မဝေးတော့။ နံနက်ပိုင်း ရန်ကုန်၌ ရှိလျှင် ညနေပိုင်းတွင် မန္တလေးသို့ ရောက်နိုင်၏။ ဤသို့ ပြည်တွင်း မြို့များသာမက ပြည်ပမြို့များသို့လည်း အိမ်ဦးနှင့် ကြမ်းပြင်ကဲ့သို့ မကြာခဏ ခေါက်တုံ့ခေါက်ပြန် ကူးသန်းနိုင်လေပြီ။ ကမ္ဘာလှည့်ပုဂ္ဂိုလ်တို့သည် ယခုကဲ့သို့ ခေတ်မီ လျင်မြန်

သော ယာဉ်မျိုးကို အသုံးပြုရသဖြင့် သူတို့အဖို့ များစွာ အကျိုးရှိလေသည်။ ဒေသသစ်၊ နယ်သစ်၊ နိုင်ငံသစ်များသို့ သွားရောက်ကာ အသစ်အသစ်သော ပညာရပ်များ၊ လုပ်ငန်းများ၊ နည်းလမ်း ဥပဒေများစသည့် လူ့လောကဆိုင်ရာ ပြဿနာ အမျိုးမျိုးကို ပြေလည်နိုင်စေသော အဖြေကောင်းများကို သယ်ပိုးလာကြ၏။

သယ်ယူပို့ဆောင်ရေး လုပ်ငန်းတို့ တွင်ကျယ်စေရန် တီထွင်ရသော အမျိုးမျိုးသော ယာဉ်ရထားများမှာ ခရစ်နှစ် ၁၈၃၀ ပြည့်နှစ်လောက်ကတည်းက စုံလင်နေပေပြီ။ ယခုခေတ်၌ အသုံးပြုနေကြသော မီးရထား၊ မီးသင်္ဘော၊ မော်တော်ကား၊ လေယာဉ်ပျံ စသော ယာဉ်များအားလုံးသည် ထိုနှစ်လောက်တွင် အစုံအလင် ရှိနေပေသည်။ ထိုခုနှစ်မတိုင်မီက ပင်လယ်ခြားနေသော ဒေသများနှင့် အလွန်ခရီးရှည်သော ဒေသများသို့ ပိုးထည်များ၊လက်ဖက်ခြောက်နှင့် အမွှေးအကြိုင်များ စသော ကုန်ခြောက်တို့ကိုသာ တင်ပို့လေသည်။ သို့သော် ယခုအခါ၌ လူတို့ လိုအပ်သည့် အသုံးအဆောင် အစားအသောက် ပစ္စည်း အမျိုးမျိုးကို တင်ပို့နိုင်ပြီ ဖြစ်လေသည်။

**သယ်လီယမ်။** ။သယ်လီယမ် ဆိုသည်မှာ ဂရိ ဝေါဟာရ သယ်လောမှ ဆင်းသက်လာခြင်းဖြစ်၍ သစ်ခက်စိမ်း ဟု အဓိပ္ပာယ်ရသည်။ ၁၈၆၁ ခုနှစ်တွင် သိပ္ပံပညာရှင်ကြီး ဆာဝီလျံ ကရုဇ် သည် ဆာလဖျူရစ် အက်ဆစ်မှ ထွက်လာသည့် ဓာတ်ငွေ့ပူများ၌ ဆီလီနီယမ်နှင့်တယ်လျူရီယမ် ပါ မပါကို စပက်ထရို စကုပ်ဖြင့် စမ်းသပ်နေစဉ် အခြား သိရှိပြီး ဖြစ်သော ဒြပ်စင်များအနက် မည်သည့် ဒြပ်စင်နှင့်မျှ မတူသည့် တောက်ပသော အစိမ်းရောင် အကြောင်းတကြောင်းကို တွေ့ရှိခဲ့သည်။ ထိုအခါ သူသည် အစိမ်းရောင် အကြောင်းကို ဖြစ်ပေါ်စေသည့် ဒြပ်စင်သစ်ကို ဂရိ ဝေါဟာရ အလိုအားဖြင့် သစ်ခက်စိမ်းဟု အဓိပ္ပာယ်ရသော သယ်လီယမ် ဟူသည့် အမည်ဖြင့် မှည့်ခေါ်ခဲ့သည်။ တနှစ်ကြာသောအခါ လမ်မီ ဆိုသူသည် ထိုဒြပ်စင်ကို ဓာတ်ငွေ့ပူပိုက်လုံးမှရသည့် ဖုန်မှုန့်၌ တွေ့ရှိရပြန်သဖြင့် ထုတ်ယူပြီးလျှင် ထိုဒြပ်စင်၏ ဒြပ်ပေါင်းများကို စစ်ဆေးခဲ့သည်။

သယ်လီယမ်ကို ဆွီဒင်နိုင်ငံမှ ထွက်သော ကရုဆိုက်ခေါ် တွင်းထွက် ပစ္စည်းရိုင်းတွင် အများဆုံး တွေ့ရှိရသည်။ ဇဟာန်းကျောက်မျိုးတွင် ပါသည့် ကော့ပါးနှင့် အိုင်းယန်းပီရိုက်တီး၌လည်း အနည်းအကျဉ်း ပါရှိရာ တခါတရံ ဤပစ္စည်းများမှ သတ္တုကို ဖော်ယူသည်။ သို့သော် ဤသတ္တုကို အက်ဆစ်လုပ်သည့် စက်ရုံများမှ ထွက်သော ဖုန်မှုန့်များမှ အများဆုံး ရရှိသည်။

သယ်လီယမ်သည် အလုည့်မှန် ဇယားတွင် တတိယအစု၌ ပါဝင်သည်။ အက်တမ်အမှတ် ၈၁ ဖြစ်၍ အက်တမ်အလေးချိန် ၂၀၄.၄၄ ဖြစ်ပြီးလျှင် သင်္ကေတမှာ (TL.) ဖြစ်သည်။ ပျော့ပျောင်း၍ ခဲပြာရောင်ရှိသဖြင့် ခဲနှင့် တူသည်။ သိပ်သည်းဆ ၁၁.၈၅ ရှိ၍ အရည်ပျော်ချိန်မှာ ၃၀၃° C ဖြစ်သည်။ လေပြင်တွင် ထားသောအခါ အောက်ဆီဂျင်နှင့် ပေါင်းစပ်သွားသည်။ သို့သော် လေကင်းသော ရေထဲ၌ထားလျှင် အရောင်မမှိန်ချေ။ သယ်လပ်နှင့် သယ်လစ်ခေါ် ဓာတ်ဆား နှစ်မျိုးသည် အခြား ဒြပ်စင်များ၏ ဓာတ်ဆားများနှင့် တူသောကြောင့် စိတ်ဝင်စားဖွယ်ရာကောင်းသည်။ သယ်လပ် ကရိုရိုက်သည် ဆီလဗာကရိုရိုက်ကဲ့သို့ အလင်းရောင်မိသောအခါ မဲသွားသည်။ သယ်လပ်ဟိုက်ဒရော့ဆိုက်သည် ကော့စတစ်ပိုတက်ကဲ့သို့ပင် လေမှကာဗွန်ဒိုင်အောက်ဆိုက်ကို စုတ်ယူနိုင်သည်။ ထိုအပြင် သယ်လပ်အိုင်အိုဒိုက်သည် လက်အိုင်အိုဒိုက်နှင့်ငှင်း၊ သဲလစ်ဟိုက်ဒရော့ဆိုက်သည် ဖဲရစ်ဟိုက်ဒရော့ဆိုက်နှင့်ငှင်း အသီးအသီး တူကြသည်။

သယ်လီယမ် ဒြပ်ပေါင်း အားလုံးပင် ခဲဒြပ်ပေါင်းများကဲ့သို့ အလွန် ပြင်းထန်သော အဆိပ်ဖြစ်ကြ၍ သယ်လီယမ် ဆာလဖိတ် ဒြပ်ပေါင်းကို ကြွက်သတ်ဆေးအဖြစ် သုံးသည်။ သယ်လီယမ် ဒြပ်ပေါင်းများကို မျက်မှန်များ ပြုလုပ်ရာ၌ငှင်း၊ မီးကျည် မီးပန်းများတွင် အစိမ်းရောင်ရရှိရန်အတွက်ငှင်း အသုံးပြုသည်။ သယ်လီယမ်အော့ဆီဆာလဖိုက်တွင် ဖိုတိုအီလက်ထရစ် သတ္တိရှိသောကြောင့် အလင်းအား တိုင်းရန် သယ်လိုဖိုက် ဆဲများတွင် အသုံးပြုကြသည်။

**သဲ။** ။သဲကို လူတိုင်းလိုပင် မြင်ဘူးကြသည်။ သို့ရာတွင် သဲဟူသည်ကား အဘယ်နည်းဟု မေးလျှင် အဖြေမပေးတတ်သူ အမြောက်အမြား ရှိပေမည်။ သဲဖြစ်ပေါ်လာပုံမှာ သဘာဝ၏ ဖောက်ပြန် ပြောင်းလဲမှုကြောင့် ဖြစ်သည်။လေ၊မိုး၊နှင်း စသည်တို့သည် ကျောက်ခဲများကို ပြိုကွဲပျက်စီးစေနိုင်ကြသည်။ နေ့အခါတွင် နေ၏ပြင်းထန်သောအပူကြောင့် ကျောက်ခဲတို့သည် အလွန်ပူကြသည်။ညဉ့်ဖက်သို့ရောက်သောအခါ ရုတ်တရက် အေးလာကြကာ အက်ကွဲကုန်ကြသည်။ ရေ၊ မိုး၊ လေတို့က တဖန် အက်ကွဲသော ကျောက်ခဲတို့ကို တိုက်စား၍ ကျောက်စရစ်၊ နုံး၊ ရွှံ့နှင့် သဲများအဖြစ်သို့ ပြောင်းပစ်လိုက်ကြသည်။ ထိုသို့ကျောက်မှ ပြိုကွဲ၍ ဖြစ်လာသော သဲမှာ အချင်း ၁/၁၆ မီလီမီတာမှ နှစ်မီလီမီတာထိ ရှိသည်။

သဲတွင် အခြားပစ္စည်းများအပြင် ကျောက်သလင်းကို အမြဲတမ်း တွေ့ရသည်။ ဤသို့ တွေ့ရခြင်းမှာ ကျောက်သလင်းသည် အလွန်မာပြီးလျှင် ရေတွင် ပျော်ဝင်၍ ပါ

မသွားခြင်းကြောင့် ဖြစ်သည်။ အချို့ အရပ်ဒေသများ၌ သံတွင် ဖဲလစပါး၊ ထုံးကျောက်နှင့် သံသတ္တုရိုင်း အမြောက်အမြား ပါရှိသည်ကို တွေ့ရသည်။ ဤပစ္စည်းများအပြင် ဂါးနက်(ပဒဲကျောက်)၊ တူမာလင် (အကြွပ်)၊ ဇာရကွန် (ဂေါ်မိတ်) စသည်များလည်း အနည်းငယ်စီ ပါဝင်တတ်သေးသည်။

ပင်လယ်ကမ်းစပ်၊ မြစ်ကမ်းစပ်တို့တွင် ရေသည် သံတွင် ပါရှိသည့် ပေါ့သော ပစ္စည်းများကို သယ်ဆောင်သွားသဖြင့် သံတွင် လေးသော ပစ္စည်းများသာလျှင် ကျန်ရှိသည်။ ထိုကြောင့် တခါတရံ ဤနေရာမျိုးမှာ စိန်နှင့်တကွ အဖိုးတန်ကျောက်များကိုင်၊ ရွှေ၊ ပလက်တီနမ်၊ သံဖြူကဲ့သို့ သတ္တုများကိုင်း တွေ့ရှိရတတ်သည်။ ယခုအခါ သံဖြူဟု ခေါ်ကြသော သံတွင် ဂေါတံကျောက် အဓိက ပါရှိသည်။ ငွေရောင်သံတွင် ကျောက်သလင်း အဓိက ပါရှိသည်။ သမုဒ္ဒရာအောက်ခြေတွင် အစိမ်းရောင်သန်းလျက်နေသော သံများကို တွေ့ရသည်။ ထိုသံများမှာ ဂလူကိုနိုက်ခေါ် ပိုတက်ဓာတ် ပါရှိသောကြောင့် အစိမ်းရောင်သန်းနေခြင်း ဖြစ်သည်။

သံတွင် သံခြောက်နှင့် သံရှင်ဟူ၍ သံနှစ်မျိုးရှိသည်။ သံရှင်မှာ သံထဲ၌ ရေဝင်နေသော သံမျိုးဖြစ်၍ များသောအားဖြင့် ပင်လယ်ကမ်းနားတွင် အတွေ့ရ များသည်။ အကယ်၍ ထိုသံကို ခြေဖြင့် ဖိပေးသောအခါ သံထဲမှ ရေထွက်သွား၍ ခြေထောက်မှာ သံတွင် နစ်မြုပ်လျက် ရှိသည်။ သံမှ ခြေထောက်ကို ကြွယူလိုက်သောအခါ သံထဲသို့ ရေပြန်ဝင်လာ၍ သံရှင် တဖန် ဖြစ်လာပြန်သည်။ သံရှင်ကို ခြေဖြင့် မထိပဲ တနည်းနည်းဖြင့် လှုပ်ပေးလျှင်လည်း သံထဲမှ ရေသည် အပြင်သို့ ထွက်သွားနိုင်သည်။

သံခြောက်သည် သဲကန္တာရများနှင့် ရေ အလွန်ရှားပါးသော အရပ်ဒေသများ၌ တွေ့ရသော သံမျိုးဖြစ်သည်။ ဤသံမျိုးသည် ထိုအရပ်များ၌ သံခုံအဖြစ်ဖြင့် ရှိကြသည်။ သံခုံများကို တနေရာတည်း၌ပင် အတည်တကျဟူ၍ မတွေ့ရတတ်ချေ။ လေက ထိုသံခုံများကို တိုက်ခတ်၍ နေရာပြောင်းရွှေ့စေသည်။ သံခုံများကို တနေရာတည်း၌ တည်မြဲစေလိုက သံတွင် ရှင်သန်နိုင်သည့် အပင်များကို စိုက်ပျိုးထားကြရသည်။ သို့တည်းမဟုတ် အတားအဆီးများကိုသော်လည်း ပြုလုပ်ထားကြရသည်။ တခါတရံ သံခုံတို့သည် တနေရာမှ ကွယ်ပျောက်သွား၍ အခြား နေရာသစ်တွင် ပေါ်ထွန်းတတ်ကြသည်။ ထိုအရပ်ဒေသရှိ မြက်ခင်းများ၊ သို့မဟုတ် သစ်တောများသည် သံဖုံးလွှမ်း၍ ကွယ်ပျောက်သွားတတ်ကြသည်။

သံနှင့်စပ်လျဉ်း၍ ထူးဆန်းသော အချက်တချက်မှာ သံမှ အသံထွက်ပေါ်ခြင်းပင် ဖြစ်သည်။ မောင့်ဆိုင်နိုင် အရပ်ရှိ သီချင်းသံကဲ့သို့ အသံထွက်တတ်သော သံများသည်၎င်း၊ အရေဗျနိုင်ငံ ဇဲတောင်ရှိ ခေါင်းလောင်းသံကဲ့သို့ အသံထွက်တတ်သော သံများသည်၎င်း၊ ဒေါ်ဆက်အရပ်ရှိ တူရိယာသံကဲ့သို့ အသံထွက်သော သံများသည်၎င်း ကမ္ဘာပေါ်တွင် ထင်ရှားသော သာဓကများ ဖြစ်ကြသည်။ သံတွင် အလွန်ခြောက်သွေ့နေသောအခါနှင့် အလွန်စိုထိုင်းနေသောအခါတို့၌ အသံထွက်ပေါ်လာခြင်းမရှိပေ။ စိုထိုင်းရုံ စိုထိုင်းနေမှသာလျှင် အသံထွက်ပေါ်လာတတ်ပေသည်။ သံမှ အသံထွက်ပုံအကြောင်းနှင့် စပ်လျဉ်း၍ အမျိုးမျိုး အဖုံဖုံ ပြောဆိုခဲ့ကြလေသည်။ စင်စစ်အားဖြင့် သံတို့၏ လှုပ်ရှားမှုကြောင့် သံလုံးအချင်းချင်း ပွတ်တိုက်မိရာမှ အသံထွက်ပေါ်လာသည်ဟု ထင်မှတ်ဖွယ်ရာ ရှိသည်။

အထက်ပါ သံနှစ်မျိုးအပြင် သံကျောက်အဖြစ်ဖြင့် ဖွဲ့စည်းလျက်ရှိသော သံများလည်း ရှိသေးသည်။ အချို့ အရပ်တွင် သံသည် မြေအောက်၌ မြုပ်၍ ဖိအားကြီးစွာဖြင့် ဖိနှိပ်ခံနေရစဉ် ရေသည် သံပွင့်များကြားထဲသို့ အစဉ်သဖြင့် ဖြတ်သန်းလျက် ရှိသည်။ ထိုသို့ ဖြတ်သန်းလျက်ရှိစဉ် ရေတွင် ပျော်ဝင်ပါရှိသောဓာတ်ပစ္စည်းများသည် အိုင်ယန်းအောက်ဆိုက် ထုံးကျောက်အစရှိသည်တို့ ဖြစ်ကြပြီး သံနှင့် ပေါင်းစည်းလိုက်ကြသည်။ ထိုအခါ သံသည် သံကျောက် ဖြစ်သွားသည်။သံကျောက်၏မာကျောခြင်းမှာ ထိုကျောက်တွင် ပေါင်းစပ်ပါဝင်သော ပစ္စည်းတို့၏ အတိုင်းအဆပေါ်တွင် တည်သည်။ အချို့ကျောက်မှာ ပွ၍ အဆောက်အအုံများ ဆောက်လုပ်ရန်အတွက်သာ အသုံးဝင်သည်။ အချို့မှာမူကား အလွန်မာ၍ ချပ်ဝိုင်းများ ပြုလုပ်ပြီးသော် ဓားသွေး၊ ကတ်ကျေးသွေးကျောက်များ အဖြစ်ပင် အသုံးပြုနိုင်ပေသည်။ သံကျောက်၏ အရောင် အမျိုးမျိုးမှာလည်း ကျောက်တွင်ပါရှိသော ပစ္စည်းတို့ကိုလိုက်၍ ဖြစ်ကြသည်။

သံကို အိုးလုပ်ငန်း၊ ဖန်ချက်လုပ်ငန်းနှင့် ဆီလီကိတ်လုပ်ငန်းများတွင် သုံးသည်။ ဖန်ချက်လုပ်ငန်းတွင် ဖန်ထည်၏ အမျိုးအစားသည် သံအကောင်းအညံ့နှင့် သံလုံး အကြီးအငယ် ပေါ်တွင် တည်သည်။ သံမှ သံမဏိလုပ်သော နည်းတနည်းတွင် မီးဖိုအတွင်းဖက်၌ သံကို ခံပေးရသည်။ ပုံသွင်းရာ၌ အသုံးပြုသော ပုံခွက်များကို သံဖြင့် ပြုလုပ်ယူကြရသည်။ သံဖြင့် ပြုလုပ်သည့် အုတ်ခဲသည် ရွှံ့ဖြင့်လုပ်သည့် အုတ်ခဲထက် ပို၍ ခိုင်ခံ့သည့်ပြင် အလေးဒဏ်ကိုလည်း ခံနိုင်သည်။အင်္ဂတေလုပ်ငန်းနှင့် ဗိလတ်မြေ လုပ်ငန်းတွင်လည်း သံကို အမြောက်အမြားအသုံးပြုကြသည်။ သတ္တု ကရိယာများမှ အညစ်အကြေးများကို တိုက်ချွတ်ရန်ဖြစ်စေ၊သံချေးတက်နေသော သံထည်များကို တိုက်ချွတ်ရန် ဖြစ်စေ၊ ကျောက်ပေါ်တွင် အက္ခရာတင်ရန်ဖြစ်စေ သံကို သံမှုတ်စက်တွင် ထည့်၍ အသုံးပြုသည်။သံမှုတ်စက်မှာ သံကိုဖိနှိပ်ထား

သည့် လေဖြင့် မှုတ်ထုတ်ပေးသော စက်ဖြစ်၍ လုပ်ငန်း အသေးအဖွဲ့များတွင် လက်ဆွဲဖိုဖြင့် မှုတ်ပေးရသည်။ သို့သော် လုပ်ငန်းကြီးများတွင်မူကား ဖိအား ၁၅ပေါင်မှ ပေါင် ၇၀ အထိရှိသော လေမှုတ်စက်များကို အသုံးပြုလေ့ရှိသည်။ သဲထု လက်မ ၂၀ ရှိလျှင် ရိုးရိုးကျည်ဆံများကို တားဆီးနိုင်သဖြင့် စစ်မြေပြင်တွင် သဲအိတ်များကို ကျည်ဆီးကာ အဖြစ်ဖြင့် အသုံးပြုကြသည်။ ရေကြီးသော အရပ်ဒေသများ၌ ရေ၏ ပြင်းထန်သောဒဏ်ကို သဲအိတ်များဖြင့် ခံ၍ ကာကွယ်ကြလေသည်။

**သဲကန္တာရ။** ။ကန္တာရ — ရှု။

**သဲကုန်းမြို့။** ။သဲကုန်းမြို့သည် ပြည်ထောင်စု မြန်မာနိုင်ငံ ပဲခူးတိုင်း၊ ပြည်ခရိုင် ပေါင်းတည်ခရိုင်ခွဲ၏ အနောက်ပိုင်းရှိ သဲကုန်းမြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ ရန်ကုန်–ပြည် မီးရထားလမ်းပေါ်တွင် တည်ရှိ၍ ရန်ကုန်မှ ၁၄၁ ¾ မိုင်၊ ပြည်မှ ၁၉ ¾ မိုင် ကွာဝေးလေသည်။

သဲကုန်းမြို့နယ်၏ မြေမျက်နှာပြင်သည် ပြန့်ပြူးသည်။ မြေဩဇာ ကောင်းမွန်သော ဒေသဖြစ်သည်။ မြို့နယ်အတွင်း၌ အင်းမဟုခေါ်သော အင်းအိုင်ကြီးတခု တည်ရှိရာ အလျား ဆယ်မိုင်၊ အနံ လေးမိုင်မျှရှိသည်။ မိုးအခါ ၁၂ ပေမျှ ရေအနက်ရှိသော်လည်း နွေအခါ ခန်းခြောက် သွားလေသည်။ မြို့နယ်၏ အကျယ်အဝန်းသည် ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ ၂၉၉ စတုရန်းမိုင်ဖြစ်၍ ကျေးရွာပေါင်း ၅၆ ရွာ ပါဝင်သည်။ ၁၉၇၁ ခုနှစ် နောက်ဆုံးစာရင်းအရ သဲကုန်းမြို့နယ်တွင် လူဦးရေသည်၁၁၆,၀၀၀ခန့်ဟုသိရှိရသည်။ မြို့ပေါ်ရှိ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၁,၅၀၅ ယောက်ဖြစ်သည်။ မြို့ပေါ်၌၎င်း၊ မြို့နယ် အတွင်း၌၎င်း နေထိုင်ကြသူများသည် ဗုဒ္ဓဝါဒီ မြန်မာ လူမျိုးများ အများဆုံးဖြစ်၏။ ခရစ်ယာန်ဝါဒီ ကရင်လူမျိုးများကား အနည်းငယ်သာရှိလေသည်။ မြို့ပေါ်နေသူများသည် အစိုးရ ရာထမ်းမှုထမ်း၊ ကုန်သည် ပွဲစားများ များပြား၍ နယ်တွင် လယ်ယာစိုက်ပျိုး လုပ်ကိုင်သူများသာလျှင် အများဆုံး ဖြစ်သည်။

မြို့နယ်၏ အဓိကထွက်ကုန်သည် ဆန်စပါး ဖြစ်သည်။ မိုးပါးသော အရပ်ဖြစ်သော်ငြားလည်း မိုးရေကိုပင် အားထားကာ စပါးစိုက်ပျိုးလုပ်ကိုင်ကြသည်။ ကြီးကြီး ကျယ်ကျယ် ဆည်တူးမြောင်းဖြင့် ရေသွင်း စိုက်ပျိုးလုပ်ကိုင်ခြင်း မရှိချေ။ ရေသွယ်ယူ စိုက်ပျိုးလုပ်ကိုင်သော မြေကေအနည်းငယ်ရှိရာ အင်းမမှရေကို သွယ်ယူခြင်းဖြစ်လေသည်။ အင်းမတွင် အင်းလုပ်ငန်းကို ကြီးကြီးကျယ်ကျယ် လုပ်ကိုင်ကြ၍ အင်းမရွာသည် သဲကုန်းမြို့နယ်အတွင်း လူဦးရေ



သဲကုန်းမြို့ရှိ မဟာကန်လယ်စေတီ

များပြား စည်ကားသော ရွာကြီးတရွာ ဖြစ်သည်။ မြို့နယ်အတွင်းတွင် မြို့ငယ်ကလေးများဟု ဆိုရလောက်အောင် စည်ကားသော ရွာကြီးများမှာ ပုတီးကုန်းနှင့် ဆင်မြီးဆွဲတို့ ဖြစ်ကြလေသည်။

မြို့ပေါ်တွင် ထင်ရှားသော တန်ခိုးကြီးစေတီတော်များမှာ အရှေ့ဖက်တွင် မဟာကန်လယ် စေတီတော်၊ မြောက်ဖက်တွင် မိုးကောင်း စေတီတော်တို့ ဖြစ်သည်။ မိုးကောင်းစေတီတော်ကြီး အနီး အရှေ့ဖက်တွင် ရှိသော အစိုးရ အထက်တန်းကျောင်းနှင့် အစိုးရစိုက်ပျိုးရေး အလယ်တန်းကျောင်းတို့သည် မြို့၏ ထယ်ဝါခန့်ညားသော အဆောက်အအုံများတွင် ပါဝင်လေသည်။

မြို့နယ်တွင်းနှင့် မြို့နယ်အပ ဆက်သွယ်ရေးအတွက် မီးရထားလမ်းကို၎င်း၊ မော်တော်ကားလမ်းကို၎င်း အသုံးပြုနိုင်လေသည်။

**သော့နှင့် သော့ခလောက်။** ။အိမ်တံခါး၊ ပြတင်း၊ ဗီရို၊ သေတ္တာ၊ အံဆွဲစသော ဖွင့်ရပိတ်ရသည့် အိမ်ထောင်ပစ္စည်းများကို လုံခြုံမြဲမြံစွာ ပိတ်ထားရန်အတွက် သော့နှင့် သော့ခလောက်များကို အသုံးပြုကြရလေသည်။ ရှေးပါးရှားနိုင်ငံ ခေါ်စဗက်မြို့တွင်ရှိသော ရှေးခေတ် နန်းတော်ပျက်ကြီးအတွင်း၌ နှစ်ပေါင်း ၄,၀၀၀ ကျော်ကျော်ခန့်က အသုံးပြုခဲ့သော သော့ခလောက်ကြီးကိုတွေ့ရှိခဲ့ကြောင်းဖြင့် ဂျီးဇက် ဗိုနိုမီဆိုသူ ဣတာလျံလူမျိုး ခရီးသည်တဦးက ရေးသားဘူးခဲ့လေသည်။ ယင်းသော့ခလောက်နှင့် သဏ္ဍာန်တူသော သစ်သားသော့ခလောက်ကြီးမျိုးကို စကော့တ

လန်ကမ်းရိုးတန်းနှင့် မကွာလှမ်းလှသော ဖာရိုးကျွန်းများ၊ ဂျပန်နိုင်ငံ၊ နော်ဝေးနိုင်ငံများ၌လည်း တွေ့ရှိကြသည်။

ရှေးခေတ် သစ်သားသော့ခလောက်များသည် အလွန်တရာ ထုထယ်ကြီးမားလေသည်။ သော့ခလောက်ကို ဖွင့်သည့် သော့တံပင်လျှင် တပေခန့်ရှည်၍ တမေါင်ခန့် လေးလေသည်။ သစ်သားသည် သံ၊ကြေးနီ စသော သတ္တုများလောက် မခိုင်ခံ့သဖြင့် ထိုကဲ့သို့ ကြီးကြီးလုပ်၍ အသုံးပြုကြခြင်း ဖြစ်ဟန်တူသည်။ သံ၊ ကြေးနီ စသည်တို့ပေါ်လာသည့်အခါ ယင်းတို့ဖြင့် သော့နှင့် သော့ခလောက်များကို ပြုလုပ်ကြသည်။ ထိုသော့နှင့် သော့ခလောက်မျိုးကို အီဂျစ်လူမျိုးတို့ ပဌမဆုံး ပြုလုပ်ခါစကမူ သစ်သားဖြင့် ပြုလုပ်သကဲ့သို့ပင် ထုထယ်ကြီးကြီး ပြုလုပ်ကြလေသည်။ ထိုကြောင့်ပင် ရဲတိုက်များ၊ အကျဉ်းထောင်များကို စောင့်ရသော ရဲတိုက်စောင့်နှင့် ထောင်မှူးတို့၏ခါး၌ တချင်ချင်မြည်၍ တွဲလွဲကျနေသော သော့တွဲကြီးများသည် အဆင်တန်ဆာ လက်နက်သဖွယ် ထယ်ဝါလှပေသည်။ ယခုထက်တိုင် ထိုသော့ကြီးမျိုးကို လန်ဒန်မြို့ရှိ တင်းပဲချပ် အဆောက်အအုံကြီးတွင် တွေ့မြင်နိုင်သေးသည်။ ထိုသော့နှင့် သော့ခလောက်ကြီးများသည် အချိန်စီး၍ ကြီးလှသော်လည်း ခိုင်မြဲလုံခြုံမှု၌ကား အိတ်ထဲတွင် ထည့်ယူနိုင်သည့် ယခုခေတ်သော့မျိုးကဲ့သို့ စိတ်မချရချေ။ ထိုခေတ်က သော့နှင့်သော့ခလောက်တို့သည် ခိုင်မြဲလုံခြုံမှုထက် အလှအပကို ပိုမို ဂရုထား၍ ပြုလုပ်ထားလေသည်။ ဂရိတို့သည် သော့များကို ရွှေငွေများနှင့် တန်ဆာဆင်ကာ ဆင်စွယ်အရိုးပင် တပ်ထားတတ်ကြသည်။ ယင်းတို့သည် အလွန်လေးသဖြင့် ပခုံးဖြင့် ထမ်းသွားရသည်ဟုပင် ဆိုကြသည်။

တရုပ်နိုင်ငံသည် ကမ္ဘာပေါ်၌ ရှေးအကျဆုံး ခေတ်ကပင် သော့ခလောက်များကို ပြုလုပ် သုံးစွဲခဲ့သည်ဟု အဆိုရှိသည်။ သော့တံမပါပဲ ဖွင့်ပိတ်၍ရသော သော့ခလောက်များကို တရုပ်တို့ပင် တီထွင်ခဲ့လေသည်။ အချို့ တရုပ်သော့ခလောက်များတွင် ရွှေ့၍ရသောကွင်း များစွာ ပါလေသည်။ ထိုကွင်းများတွင် စာလုံး အမှတ်အသားများရှိသည်။ စာလုံးများကို သတ်မှတ်ထားသော အစီအစဉ်ကျသည်အထိ ကွင်းများကို လှည့်လိုက်သောအခါမှ သော့ခလောက်ကို ဖွင့်၍ရလေသည်။

သော့နှင့် သော့ခလောက် အကြီးကြီးများ ပြုလုပ်သုံးစွဲရာမှ တဖြည်းဖြည်း လှပသော ပုံသဏ္ဍာန်ရှိ သော့ခလောက် အကြီးအသေး အမျိုးမျိုးကို ပြုလုပ်ကြပြန်သည်။ ငှက်ရုပ်၊ ငါးရုပ်၊ ခွေးရုပ်၊ တြိဂံပုံ၊ နှလုံးပုံ၊စက်ဝိုင်းပုံ စသည်ဖြင့် ပုံသဏ္ဍာန်အမျိုးမျိုး ပြုလုပ်ကြသည်။

တဆဲ့ရှစ် ရာစုနှစ် နောက်ပိုင်းတွင် ဂျိုးဇက် ဗရာမာဆိုသူ တီထွင်သော သော့တူလုပ်မရသည့် သော့ခလောက်မျိုး ပေါ်လာသည်။ ဗရာမာ၏ သော့ခလောက်ထဲတွင် မောင်းတံကလေးများ ပါရှိသည်။ ထိုမောင်းတံကလေးများ အားလုံးကို တပြိုင်နက် လှုပ်ရှားနိုင်ပါမှ သော့ခလောက်ပွင့်လေသည်။

တဆဲ့ကိုး ရာစုနှစ်အစတွင် ချားချပ်ဆိုသူ တီထွင်သော သော့နှင့် သော့ခလောက်များ ပေါ်လာသည်။ ချပ်တီထွင်သော သော့ခလောက်သည် အနည်းဆုံး မောင်းခြောက်ခု ပါရှိသည်။ ယင်းမောင်းတံကို ကာကွယ်ထားသော မောင်းတံတခုလည်း ပါရှိသဖြင့် သူ့သော့နှင့်သူ မဟုတ်က ဖွင့်နိုင်ရန် မဖြစ်သလောက် ခဲယဉ်းလေသည်။ အခြား သော့နှင့် ဖွင့်ပါက ကာကွယ်ထားသော မောင်းတံကိုသာ မ တင်လိုက်သကဲ့သို့ ဖြစ်ပြီးလျှင် ပြန်ကျမလာပဲ သော့မှာလည်း ဖွင့်မရတော့သဖြင့် ဖွင့်ရန် ကြံစည်ကြောင်း ပိုင်ရှင် သိနိုင်သည်။ ချပ်၏ သူ့သော့နှင့် သော့ခလောက်မျိုးကို ယခုအခါ ငွေတိုက်ကြီးများ၊ ဘဏ်တိုက်ကြီးများတွင် အသုံးပြုလျက်ရှိလေသည်။ ဩစတြေးလီးယား နိုင်ငံ ဆစ်ဒနီမြို့ရှိ ခနသဟာယ ငွေစုဘဏ်တွင် ချပ်ကုမ္ပဏီမှ ပြုလုပ်ပေးထားသော ငွေတိုက်တံခါး သော့ခလောက်ကြီးသည် အလေးချိန် ပိသာပေါင်း ၁၅,၀၀၀ ကျော် လေးသော်လည်း အလွန်အံကျ ချိန်ဆပြုလုပ်ထားသောကြောင့် ကလေး သူငယ်တယောက် အသာအယာ တွန်းရုံဖြင့် ရွေ့လေသည်။

ချပ်နှင့် မရှေးမနှောင်းပင် နာမည်ကျော် ယေး သော့ခလောက်ကို တီထွင်ပြုလုပ်လေသည်။ လီနပ် ယေးသည် နှစ်ပေါင်း ၃,၀၀၀ ကျော်ခန့်က အီဂျစ် လူမျိုးများ ပြုလုပ်ခဲ့သော သစ်သား သော့ခလောက်ပုံစံကိုကြည့်၍ စိတ်ကူးရကာ တီထွင်လိုက်ခြင်း ဖြစ်သည်။ ယေးဆလင်ဒါ သော့ခလောက်မျိုးမှာ လုံးလုံးရှည်ရှည် သော့ခလောက်မျိုးဖြစ်၍ သော့အပြားကလေးနှင့် ခတ်ရလေသည်။ ထိုသော့ခလောက်မျိုးသည် လုပ်ကိုင်ပုံ သပ်ရပ် သေသပ်လှ၍ သူ့သော့ မဟုတ်ပဲ အခြားသော့၏ အထစ်သည် တလက်မ၏ ၅၀ ပုံ တပုံကလေးမျှ ကွာခြားရုံမျှဖြင့် ဖွင့်၍ မရနိုင်ပေ။ သူ့သော့နှင့် သော့ခလောက်မှသာလျှင် သော့အိမ်အတွင်းရှိ သံချောင်းလုံးကလေးများကို အလိုက်သင့် မ တင်နိုင်၍ ဖွင့်နိုင်လေသည်။

သော့နှင့် ခတ်ရသော သော့ခလောက် မည်မျှပင် ကောင်းသော်လည်း မာစတာကီး ဆိုသော သော့အခရာ ခေါ် ထစ်များမရှိပဲ မည်သည့် သော့ခလောက်မျိုးကိုမဆို ဖွင့်နိုင်သည့် သော့ချောင်းမျိုးဖြင့် သူခိုးတို့ ဉာဏ်ထွင်လာပြန်ရာ မည်သည့် သော့ခလောက်မျိုးမှ မလုံခြုံ စိတ်မချရချေ။ ထိုကြောင့် သော့ချောင်းဖြင့် မဖွင့်ရသော သော့အိမ်သော့ခလောက်မျိုးကို ကြံစည် တီထွင်ကြပြန်သည်။ သို့ဖြင့် အချို့ အာမခံ သေတ္တာကြီးများမှ သော့အိမ်များ

မှာ သက်ဆိုင်သူတို့သာ သိနိုင်သော စကားလုံးများဖြင့် ညွှန်းထားသော နည်းနှင့် သော့အိမ်မှ လက်ကိုင်ဖုကို ရွှေ့တိုး နောက်ငင် ရွှေ့ရှား လှည့်ပတ်ကာ ဖွင့်နိုင်ရန် ထွင်ထားကြသည်။ အချို့က လူနှစ်ဦး၌ ဖြစ်စေ၊ ထိုထက် ပိုသော သူများ၌ဖြစ်စေ သော့များထားရှိ၍ ထိုသော့များဖြင့် တယောက်ပြီးတယောက် သူ့အလှည့်နှင့်သူ သူ့အရေအတွက်နှင့် လှည့်ကာ ဖွင့်ရသည့် သော့အိမ်မျိုးကိုလည်း အသုံးပြုကြလေသည်။ ၁၈၇၇ ခုနှစ်တွင် နောက်ဆုံးပေါ်သည့် သော့အိမ်မှာကား နာရီစက်ကလေး တပ်ဆင်ထား၍ ထိုနာရီဖြင့် သတ်မှတ်ထားသော အချိန်နာရီ ကျမှသာ သော့ပွင့်သည့် သော့မျိုး ဖြစ်လေသည်။ ပွင့်စေလိုသော အချိန်ရောက်မှ အလိုလိုပွင့်သော သော့ခလောက်ဖြစ်၏။

သော့နှင့် သော့ခလောက်များမှာ ဆင်းရဲ ချမ်းသာ မရွေး အိမ်တိုင်း အသုံးပြုရသော အသုံးအဆောင် ဖြစ်၍ ငါးမူးတန် တကျပ်တန်မှ တထောင်တန်လောက်အထိ အမျိုးမျိုး အစားစား ရှိပြီးလျှင် တနှစ်တနှစ်တွင် လုပ်ကိုင်ရောင်းချရသော သော့ခလောက် သော့အိမ်များမှာ သန်းပေါင်း ၅၀ ကျော်မျှ ဖြစ်သည်ဟု သိရပေသည်။

**သော်ကပင်။** ။မြန်မာနိုင်ငံ၌ မူလ စတင် ပေါက်ရောက်သော သစ်ပင်များအနက် သော်ကပင်သည် တမျိုးအားဖြင့် ပါဝင်သည်။ အပူပိုင်းဒေသပေါက် အပွင့်ပွင့်သော သစ်ပင်များအနက် အပွင့်ပွင့်ပုံ ထူးခြားလှပ ခန့်ညားသဖြင့် သစ်ပင်အလှဘုရင်မ အဖြစ်ပင် တင်စားခဲ့ကြသည်။ ရုက္ခဗေဒအမည်အားဖြင့် အမ်းမှတ်စရှား နိုဗီလစ်ဟု ခေါ်သည်။ ထိုသစ်ပင်ကို နိုင်ငံခြားသား ရုက္ခဗေဒ ပညာရှင်တဦးက သံလွင်မြစ် ကမ်းရိုး၌ စတင် တွေ့ရှိခဲ့ရာ ဗြိတိသျှအစိုးရတို့ မြန်မာနိုင်ငံကို အုပ်ချုပ်သည့် ခေတ်ဦးပိုင်းက အိန္ဒိယနိုင်ငံ၏ ဘုရင်ခံချုပ် ဖြစ်သော လော့ အမ်းမှတ်၏ ဇနီး လေဒီအမ်းမှတ်ကို ဂုဏ်ပြုသောအားဖြင့် ထိုအမည် တပ်ခဲ့ခြင်းဖြစ်လေသည်။

ငု၊ စွယ်တော် စသည်တို့နှင့် မျိုးရင်းတူဖြစ်၍ သော်ကပင်သည် ဆက်ဇယ်ပင်နီယေးစီအီး မျိုးရင်းတွင် ပါဝင်သည်။ ယင်းကို သော်ကကြီးပင် ဟုလည်း ခေါ်သည်။ ဝေါဟာရလီနတ္ထဒီပနီကျမ်းတွင် သော်ကပင်ကို ပန်းသုန်းပင်ဟုလည်း ခေါ်ကြောင်း ပြသည်။ ထိုကျမ်း၏ အဆိုအရ သော်က ဟူသော ဝေါဟာရသည် အသောက ပါဠိတွင် အအက္ခရာ ကျေ၍ သောကဟု ခေါ်ဝေါ်ရာမှ သော်က ဟု တွင်လာသည်။ အသောက၏ အဓိပ္ပါယ်သည် စိုးရိမ်ကြောင့်ကြမှုကို ဖျောက်တတ်သည်ဟု အဓိပ္ပာယ် ရလေသည်။

သော်ကပင်သည် စိုစွတ်သောရာသီဥတုရှိသည့် မြေပြန့်ဒေသမျိုး၌ ဖြစ်ထွန်းသည်။ ထိုအပင်တို့ ပေါက်ရောက်နိုင်သော မြေပြင်အမြင့်ဆုံးသည် ပေ ၁,၆၀၀ ဖြစ်သည်။ ပင်လယ်နှင့် နီးစပ်သော ဒေသမျိုး၌ ကောင်းစွာ မဖြစ်ထွန်းချေ။ မြန်မာနိုင်ငံတွင် အထူးသဖြင့် တနင်္သာရီတိုင်းနှင့် ကော့သူးလေပြည်နယ် ယွန်းစလင်း မြစ်ဝှမ်း ဒေသတို့၌ အများအပြား ပေါက်ရောက်သည်။ ၁၈၆၀ ပြည့်နှစ်တွင် သီဟိုဠ်ကျွန်းသို့ မျိုးယူစိုက်ပျိုးခဲ့ရာ အောင်မြင်သည်။

သော်ကပင်သည် အလတ်စား သစ်ပင်မျိုး ဖြစ်၍ ပေ ၅၀ မှ ပေ ၆၀ အထိ မြင့်သည်။ ဆွဲနှစ်ရာသီ စိမ်းစိုနေလျက် ထိပ်ဝန်းသော ရွက်အုပ်ရှိသည်။ အကိုင်းအခက်များသည် သေးသွယ်သည်။ အရင်းဝိုင်း၍ အဖျားချွန်သော အစိမ်းရင့်ရောင်ရှည်လျားလျား အရွက်ဖားဖားများသည် ငှက်မွေးပုံသဏ္ဍာန် ထွက်သည်။ အညိုရောင်နုရွက်နုများ ထူထပ်သိပ်သည်းစွာ ပါရှိသော အကိုင်းနုအခက်နုများ တွဲလျားကျ၍ ထွက်ပုံသည် သော်ကပင်၏ ထူးခြားချက် တရပ်ဖြစ်လေသည်။

မိုးရာသီမှလွဲ၍ တနှစ်ပတ်လုံး အပွင့်ပွင့်သည်။ သီဟိုဠ်ကျွန်း၌မူ နိုဝင်ဘာလမှ ဧပြီလအထိ ပွင့်သည်။ စိမ်းလန်းဝေဆာနေသော အကိုင်းအခက် အရွက်များကို နောက်ခံပြုလျက် ဟင်္သပြဒါးနှင့် အဝါရောင်နှောသော ပန်းခိုင်များ



မြန်မာသစ်ပင်များအနက် အပွင့်ပွင့်ပုံ ထူးခြားလှပခန့်ညား၍ သစ်ပင်အလှဘုရင်မဟုဆိုကြသော သော်ကကြီး

သည် ပန်းဆိုင်းပန်းခြင်းများဆွဲထားသည့်နှယ် တွဲလောင်းကျလျက် ရွက်အုပ်၏ ကြိုးကြားကြိုးကြား နေရာများမှ ပေါ်ထွက် ဖူးပွင့်နေပုံသည် ရှုမငြီးဖွယ်ရာ ဖြစ်ပေသည်။ ယင်းသို့သော တင့်တယ်ခန့်ညားသည့် အသရေကို ဆောင်သဖြင့်လည်း မြန်မာသီချင်းကြီးများတွင် သော်ကပန်းသည် နတ်ပန်းတမျှ လှပသည်ဟူ၍ငင်း၊ ရွှေပန်းခိုင် ကဲ့သို့ လှပသော အသွေးအရောင် အဆင်းသဏ္ဌာန်ရှိသဖြင့် သော်ကရွှေနှုန်းဟူ၍ငင်း တင်စားဖွဲ့နွဲ့ခဲ့ကြလေသည်။

ထိုသော်ကပင်မျိုးတို့သည် အသီးတောင့် သီး၍ အသီးတောင့်တို့သည် ခြောက်လက်မ အထိ ရှည်သည်။ အသီးတောင့်အတွင်း၌ ခပ်ပြားပြား အစေ့၊ တစေ့မှ သုံးစေ့အထိ ပါရှိတတ်သည်။ ထိုအစေ့များကို မိုးရာသီတွင် အိုးများ၊ခြင်းများ၌ ပျိုးကြသော်လည်း များသောအားဖြင့် မျိုးမအောင်ကြချေ။ မျိုးရလိုလျှင် မြေပြင်နှင့်နီးသော အကိုင်းတကိုင်းကို မြေ၌မြှုပ်၍ ပျိုးသော မြေဖိပျိုးနည်းစံနစ်ကို အသုံးပြုခြင်းသည် ပို၍ စိတ်ချရသည်။ ထိုစံနစ်ဖြင့် နွေရာသီ၌ ပျိုးထားလျှင် မိုးရာသီတွင် အကိုင်းဖြတ်၍ စိုက်နိုင်လေသည်။

သော်ကကလေး၊ သို့မဟုတ် ကုလားသော်ကဟု ခေါ်သော သော်ကတမျိုးရှိသေးသည်။ ဟိန္ဒူလူမျိုးတို့ အမြတ်တနိုး ထား၍ အသောကပင် ဟု လည်း ခေါ်ကြသည်။ အထက်ဖော်ပြပါ မြန်မာသော်ကနှင့် မျိုးရင်းတူသော်လည်း အပင်မှာ မြန်မာသော်ကလောက် မမြင့်ချေ။ ဆာရာကာ မျိုးခွဲဝင်ဖြစ်၍ ရုက္ခဗေဒအမည်ဖြင့် ဆာရာကာအင်ဒိကာဟု ခေါ်သည်။ အိန္ဒိယနိုင်ငံတောင်ပိုင်းနှင့် သီဟိုဠ်ကျွန်းတို့၌ မူလ စတင်ပေါက်ရောက်သည်။ အရွက်ထွက်ပုံသည်ငင်း၊ အရွက်များ၏ ပုံပန်း သဏ္ဌာန်သည်ငင်း မြန်မာသော်ကနှင့် ဆင်ဆင်တူသည်။ သို့သော် တွဲလျားကျနေသော အကိုင်းနုအခက်နုရှည်များမှ ပြွတ်သိပ် ထူထပ်စွာထွက်သော ရွက်နုများ၏ အရောင်သည် မြန်မာသော်က ရွက်နု အရောင်နှင့် မတူပဲ ဖြူမွဲမွဲအရောင်မျိုး ဖြစ်လေသည်။

ဘေးသို့ ပြန့်ကား၍ ထွက်သော အကိုင်းအခက်များမှ အနံ့မွှေး၍ အညာမှဲ့ ပန်းများသည် ပုဏ္ဏရိုက်ပန်းခိုင်ကဲ့သို့ အဆုပ်အခဲထွက်၍ ပွင့်ကြသည်။ ယင်းတို့သည် ပွင့်စတွင် အဝါရောင်၊ ထိုနောက် လိမ်မော်ရောင်၊ ထိုမှ အနီရောင်သို့ အရောင်ပြောင်းသွားသည်။ အသီးတောင့် အနည်းငယ် သီး၍ ထိုအသီးတောင့်မှ အစေ့ကို ပျိုးခြင်းဖြင့် မျိုးပွားယူနိုင်လေသည်။

ထိုသော်ကမျိုးသည် စိုစွတ်သောဒေသ၊ မိုးပါးသော ဒေသများ၌ စိုက်ပျိုးရနိုင်သော်လည်း လောင်းရိပ်ရသော နေရာမျိုး၊ အထူးသဖြင့် ရေနားနီးနီး နေရာမျိုး၌သာလျှင် ကောင်းစွာ ဖြစ်ထွန်းလေသည်။ မြန်မာနိုင်ငံ စိုစွတ်သော



သော်ကကလေး၊ ဟိန္ဒူကိုယ်ဝန်ဆောင်များသည် ဤပန်းစိမ်ထားသောရေကိုသောက်လျှင် သန္ဓေသားတွင် သောကအပေါင်းမှ ကင်းဝေးမည်ဟု ယုံကြည်ကြသဖြင့် အာသောကပင်ဟု ခေါ်ဆိုကြ၍ မြန်မာတို့ကမူ သော်ကကလေးပင်ဟု ခေါ်ကြသည်။

ဒေသများ၌ ခြံဝင်းများ၊ ဘုန်းကြီးကျောင်းဝင်းများတွင် အလှစိုက်လေ့ရှိကြသည်။

ကသာ၊ မိုးကုတ်၊ မြစ်ကြီးနားနယ်တို့တွင် ကချင်ဘာသာဖြင့် ဒေါင်သရိုင်းဟုခေါ်သော သော်ကဖို အမည်ရှိ အပင်မျိုးရှိသေးသည်။ ထိုအပင်မျိုးသည် ဆက်ပင်ဒေစီအီး မျိုးရင်း၌ ပါဝင်၍ ရုက္ခဗေဒ အမည်ဖြင့် ပါရာနိဖီလီယမ် ဟာစ်စတြစ် ဟု ခေါ်လေသည်။

**သောရ်နတ်။** ။ဥရောပ မြောက်ပိုင်း ပုံပြင်များတွင် ထင်ရှားသည့် သောရ်နတ်သားသည် စကန်ဒီနေးဗီးယား နတ်ဖြစ်သည်။ သောရ်နတ်သည် အိုးဒင်နတ်၏သားတော်ကြီးဖြစ်၍ စကန်ဒီနေးဗီးယား နတ်များအနက် အသန်မာအတောင့်တင်းဆုံးသော နတ်သားဖြစ်လေသည်။ လူသားတို့အတွက် ကြင်နာစွာ ကောင်းကျိုးကို ဆောင်သော်လည်း မြောက်ယွန်းယွန်း ရေခဲသောဒေသရှိ နှင်းစောင့် ဘီလူးကြီးများကိုမူ ရန်ညိုးမပြေနိုင်အောင် ဒေါသဆောင်သော နတ် ဖြစ်လေသည်။ အိုးဒင်၏သား ဖြစ်သောကြောင့် ရုပ်ဆင်းသဏ္ဌာန်မှာ အိုးဒင်နှင့် ရွေးမရအောင် တူသည်။

မြောက်ပိုင်းနိုင်ငံများတွင် နေထိုင်သူများသည် သောရ်

နတ်သားကို ဘုရားပမာ ပူဇော်ပသ ကိုးကွယ်ကြလေသည်။ ဉရောပတိုက် မြောက်ပိုင်းနိုင်ငံများတွင် ဆီးနှင်းလွှမ်းခြင်း ကြောင့် ရေခဲခြင်း နှင်းမိုးစွေခြင်းတို့ဖြစ်သည့်အခါ သောရ် နတ်သားက နှင်းစောင့် ဘီလူးများအား စစ်ဆင်ကာ မောင်းထုတ်နိုင်သဖြင့် တနိုင်ငံလုံးတွင် နွေကူးရာသီ လေ ပြည်သွေးကာ နေရောင် ပေါ်ပေါက်ပြီးလျှင် ပူနွေးလာ သည်ဟု အယူရှိကြသည်။ ကောင်းကင်မှ မိုးချုန်းသံသည် သောရ်နတ်သား၏ ရထားဘီး လှိမ့်သံ ဖြစ်သည်။ သူ၏ အစွမ်းထက်သော လက်နက်ကား မိယိုလနီခေါ် တင်းပုတ် ကြီးဖြစ်၍ ထိုတင်းပုတ်ကြီးကို ဝင့်လိုက်သောအခါ လျှပ်စစ် လက်ခြင်း ဖြစ်ပေါ်သည်ဟု ထုံးဟောင်းပုံပြင်များတွင် အဆိုရှိပေသည်။ ထို့ကြောင့် သောရ်အား လျှပ်စစ် လက် ခြင်းဆိုင်ရာ နတ်အဖြစ် ကိုးကွယ်နေကြခြင်း ဖြစ်သည်။

ငယ်စဉ်က သောရ်သည် စိတ်သဘောဖြူစင် ကောင်း မွန်သော်လည်း မကြာခဏ ဆိုသလိုပင် ထိန်းမရအောင် ဒေါသကြီးတတ်သည်။ သူ၏ ကောင်းလှသော ဗလကြောင့် မိခင်ဖြစ်သူက သူ့အား နိုင်နိုင်နင်းနင်း မထိန်းသိမ်းနိုင်သဖြင့် ထိန်းသိမ်း မွေးစားမည့်သူအား အပ်ရသည်။ မွေးစား မိဖ များသည် သောရ်အား လိမ်မာစွာ အုပ်ထိန်း နိုင်ခဲ့လေ သည်။ အရွယ်ရောက်သောအခါ သောရ်သည် အက်စဂတ် အရပ်၌ နတ်အားလုံးနေရန် အခန်း ၅၄၀ ခန်း ပါသော ဗီလစကီယားနီးယား (လျှပ်စစ်ဟု အဓိပ္ပာယ်ရသည်) နတ် ကွန်းကို ဆောက်၍ တိုက်ပွဲ၌ ကျသော စစ်သည်တော်များ အား ဂုဏ်ပြုပွဲကျင်းပရန် အသုံးပြုသည်။

သောရ်၏ ဇနီးသည်မှာ သာမန် ကျေးတောသူ ဖြစ်၍ ဆစ်ဟု တွင်သည်။ ခြေဖျားထိအောင် ဆံရှည်သဖြင့် ဇနီး သည်၏ ဆံပင်ကောင်းခြင်းကို သောရ်သည် ဂုဏ်ယူ၍ မဆုံးချေ။

သတ္တိစွမ်းပြ၍ စွန့်စားဆောင်ရွက်ရာတွင် သောရ်သည် ဦးလေးခြင်း မရှိ။ ခွန်အား အရာတွင်လည်း သူမတူအောင် သန်စွမ်းရကား ခွန်အားထုတ်၍ အလုပ်လုပ်ရာတွင် ပျော် မွေ့လေသည်။ ဉသဘ နွားလားကြီးများကိုပင် လက်ဖြင့် ညှစ်သတ်ကာ သေစေနိုင်သော အင်အားရှိ၍ သစ်ပင်ကြီး များကို ပေါ့ပါးစွာ ထမ်းနိုင်လေသည်။ သောရ်နတ်သား၏ စွန့်စားခန်း အဖုံဖုံကို ရှေးထုံးဟောင်းပုံပြင်များတွင် ဝတ္ထု သဖွယ် များစွာ ရေးသားထားကြ၏။ သောရ်နတ်သား အား ဂုဏ်ပြုသောအားဖြင့် ရက်သတ္တ တပတ်တွင် ပဥ္စမနေ့ ကို အင်္ဂလိပ် ဘာသာဖြင့် သောစဒေးဟု ခေါ်၍ ယင်းမှ သပ်စဒေး ဖြစ်လာလေသည်။

**သိုဟန်ဘွား** (မြန်မာ ၈၆၇–၉၀၄)။ ။သိုဟန်ဘွားသည် ရွှေနန်းကြော့ရှင် နရပတိနောက် အင်းဝနန်းကို စံမြန်းသော ရှမ်းမင်း ဖြစ်သည်။ (နရပတိ — လည်းရှု။) မိုးညှင်းစလုံ ခေါ် မိုးညှင်းစော်ဘွား စဝ်လုံ၏ သားတော် ဖြစ်သည်။

သိုဟန်ဘွား၏ ခမည်းတော် မိုးညှင်းစလုံသည် မြောက် ဖက် မြေဒူးနယ်၊ ဒီပဲယင်း၊ စည်ပုတ္တရာစသည်တို့နှင့် အင်းဝ နေပြည်တော် အစွန်အဖျားကို ထိပါးဖန် များခဲ့ရုံမက သက္ကရာဇ် ၈၈၆ ခုနှစ်တွင် စစ်ကိုင်းသို့ ချီလာ၍ ကျောင်း ကန် အိမ်ရာတို့ကို မီးတိုက်ကာ ရေဝတီအနောက်တလွှား မြို့ရွာများကို တိုက်ခိုက်သိမ်းယူသည်မှာ သရက်မြို့သို့ တိုင် လေသည်။ ထိုကမှ ပြည်ဘုရင် သတိုးမင်းစောနှင့် ပေါင်း၍ အင်းဝသို့ ချီသည်။ အင်းဝဘုရင် ရွှေနန်းကြော့ရှင် မခံနိုင် သဖြင့် ယခု မေမြို့အနီး ဆင်ခေါင်းဝက်ဝံသို့ ဆုတ်ရလေရာ အင်းဝတွင် သတိုး မင်းစောအား ထားခဲ့၍ ဆင်ကောင်း မြင်းကောင်းယူကာ စလုံပြန်လေသည်။ သို့ရာတွင် သတိုး မင်းစောသည် အင်းဝတွင်ရှိသော အကြီးအကဲတို့ကို ယူ၍ ပြည်သို့ ပြန်ရာ ရွှေနန်းကြော့ရှင်လည်း အင်းဝသို့ပြန်၍ အင် အား ထူထောင်ပြန်သည်။ ထိုအကြောင်းကို ကြားသော မိုးညှင်းစလုံသည် သက္ကရာဇ် ၈၈၈ ခုနှစ်တွင် သားသိုဟန် ဘွားနှင့်အတူ အလုံးအရင်း ကြီးစွာနှင့် အင်းဝသို့ ချီလာ ပြန်သည်။ အင်းဝမြို့ပေါက်၍ နရပတိမင်း နတ်ရွာစံလျှင် မိုးညှင်းစလုံသည် သားတော် သိုဟန်ဘွားအား တိုက်ဆင် ၂၀၀၊ မြင်း ၄,၀၀၀၊ စစ်သည်သူရဲ ၆၀,၀၀၀ ပေးခဲ့၍ အင်းဝ တွင် မင်းပြုစေသည်။ ရွှေနန်းကြော့ရှင်၏တူတော် မင်းကြီး ရန်နောင်ကိုလည်း ခေါ်၍ သိုဟန်ဘွားအား သွန်သင် ပဲ့ပြင်ရန် အမတ်ကြီးခန့်ထားခဲ့သည်။

သိုဟန်ဘွားသည် အင်းဝတွင် မင်းအဖြစ်ကို ရပြီးနောက် စလင်းမြို့ကို စည်သူကျော်ထင်အားပေး၏။ ပေါင်းတည်ကို ပံချီအား ပေး၏။ အမြင့်ကို သက်တော်ရှည်အား ပေး၏။ ဤသို့ နိုင်ငံတော်အလုံးတွင်ရှိသော ကျေးရွာ မြို့ပြတို့ကို မြန်မာအမတ် ရှမ်းအမတ်တို့အား အလုံးအရင်းနှင့်ချည်း ကျေးစားရွာစား ထည့်လေသည်။ ထိုနောက် ပြည်၊ တောင် ငူတို့သို့ချီ၍ သိမ်းယူရန် မင်းကြီးရန်နောင်အား တိုင်ပင်လေ သည်။ ရှမ်းတို့တိုက်လျှင် ပြည်၊ တောင်ငူသည် ခံနိုင်မည့် အခြေ မရှိသေးကြောင်းကို သိသော မင်းကြီး ရန်နောင် သည် ပြည် တောင်ငူပျက်လျှင် မြန်မာနိုင်ငံဟူ၍ မရှိတော့ ပဲ ရှမ်းတို့သာ မြန်မာနိုင်ငံအလုံးကို အစိုးရတော့မည့် ဘေး မှ ကာကွယ်လိုသဖြင့် အင်းဝကို ရလေပြီးမှ ပြည် တောင်ငူ နေဝံ့မည်မဟုတ်၊ အလိုလို ညွတ်လာမည့်အကြောင်း သိုဟန် ဘွားအား လျှောက်တင်လေသည်။ ပြည်မင်း၊ တောင်ငူ မင်းတို့အားလည်း အားမတန်သေးသည့်အခါ ရှမ်းမင်းနှင့် ချစ်ကြည်ဟန် ပြုသင့်ကြောင်း အတွင်းစာပို့လေရာ ချစ် ကြည်အောင် နေကြသဖြင့် ပြည်၊ တောင်ငူကို သိုဟန်ဘွား မတိုက်ဖြစ်တော့ချေ။ သို့ရာတွင် ၈၉၄ ခုနှစ်တွင် မိုးညှင်း

စော်ဘွား စလုံသည် အင်းဝသို့ ဆင်းလာကာ သားတော် သိုဟန်ဘွားအားခေါ်၍ ပြည်သို့ ချီတက်သည်။ ပြည်ဘုရင်ထွေး အညွှန့်ခံသဖြင့် ဘုရင်ထွေးအား ဖမ်း၍ မိုးညှင်းသို့ပြန်သည်။ ထိုအချိန်၌ တောင်ငူတွင် တပင်ရွှေထီး နန်းတက်သည်မှာ နှစ်နှစ်ပင် ရှိလေပြီ။

သိုဟန်ဘွားတို့ မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက် မအုပ်ချုပ်မီကပင် အခြားရှမ်းလူမျိုးများ ရောက်ရှိ နေနှင့်ပြီးဖြစ်ရာ ရောက်ရှိနေပြီးဖြစ်သော ရှမ်းများလောက် ယဉ်ကျေးမှု အဆင့်အတန်း မမြင့်ကြချေ။ သို့ဖြစ်ရကား သိုဟန်ဘွား၏ အုပ်ချုပ်မှုသည် ထိုအချိန်က မြန်မာနိုင်ငံ၏ အခြေအနေနှင့် မဟပ်မိချေ။ ညှဉ်းဆဲမှု ဖိနှိပ်မှုများ အလွန်အကျွံ ပေါ်ပေါက်လာရကား အင်းဝမှ မြန်မာတို့ တောင်ငူသို့ ပြောင်းရွှေ့ နေထိုင်ကြသဖြင့် တောင်ငူသည် တဖြည်းဖြည်း မြန်မာတို့၏ အင်အားစုတည်ရာ ဖြစ်လာသည်။

သက္ကရာဇ် ၉၀၀ ပြည့်နှစ်တွင် တောင်ငူမင်းတရားရွှေထီးသည် ဟံသာဝတီကို လုပ်ကြံရာ မွန်မင်း သုရှင်တကာရွတ်ပိသည် မခံနိုင်၍ ယောက်ဖတော် ပြည်ဘုရင် နရပတိထံသို့ ပြေးလာသည်။ တပင်ရွှေထီးလည်း ပြည်အထိ လိုက်သောအခါ ပြည်ဘုရင်သည် အင်းဝဘုရင် သိုဟန်ဘွားသို့ အကူ တောင်းလေသည်။ သိုဟန်ဘွားလည်း ရေတပ်ခြောက်တပ် စီရင်၍ ကတ္တူ လှန်းကြင် ၂၀၀၊ လှော်ကား သံလှေ ၁၀၀၊ စစ်သည်သူရဲ ၅၀,၀၀၀ နှင့်အတူ လာသည်။ မင်းတရား ရွှေထီး၏ ရေတပ်နှင့်ဆုံ၍ တိုက်ကြရာ သိုဟန်ဘွား အမတ် ကန္နီစား နော်ရထာ၊ ပေါင်းတည်စား ပျံချီတို့ကို လှေနှင့် တကွ မင်းတရားရွှေထီး ရလေသည်။ ရှမ်းမင်း သိုဟန်ဘွားနှင့် အပေါင်းပါ စော်ဘွားများသည် တောင်ငူကို ချီတက် လုပ်ကြံရန် ကြံစည်ကြ၏။ သို့ရာတွင် မအောင်မြင်ပဲ မင်းတရား ရွှေထီးကသာ ပြည်ကို သိမ်းနိုင်ခဲ့သည်။

ရှမ်းမင်းသိုဟန်ဘွားသည် ရတနာသုံးပါးကို မရိုမသေ ရှိမက စေတီပုထိုးများကိုလည်း ဘုရားမဟုတ် မြန်မာတို့ ဥစ္စာရွှေငွေထားရာ ဌာနများ ဖြစ်သည်ဟုဆိုကာ ဖောက်၍ ယူလေသည်။ အရိယာ သံဃာတော်များအားလည်း သားမယား မရှိပဲလျက် တပည့်တပန်းထား၍ ပုန်ကန် သောင်းကျန်းရန် အချေအရံ မွေးသည်ဟုဆိုကာ ၉၀၁ ခုနှစ်တွင် တောင်ပလုလယ်ပြင်၌ မဏ္ဍပ်အဆောင်ဆောင်ဆောက် စေပြီးလျှင် ကျွဲ နွား ဝက် ကြက် သတ်စေ၍ ဆွမ်းလုပ် ကျွေးမည် အဟန်နှင့် စစ်ကိုင်း၊ ပင်းယ၊ အင်းဝနှင့် အနီးဝန်းကျင်မှ သံဃာတော်တို့အား ပင့်ပြီးနောက် မဏ္ဍပ်တို့ကို ဆင်မြင်း ဗိုလ်ပါ ဝန်းရံ၍ သတ်လေသည်။ ၃၆၀ ကျော်သေလေသောဟူ၏။ ယင်းတို့အနက် ပါဠိ၊ အဋ္ဌကထာ၊ ဋီကာ၊ ကျမ်းဂန်ကျနတော်မူသော အရိယာသံဃာတော် သုံးကျိပ် ကျော် ပါလေသည်။ သိုဟန်ဘွားလည်း သံဃာတော်တို့အား သတ်ပြီးလျှင် ကျောင်းကန် ဘုရားတို့၌ ရှိသော စာပေကျမ်းဂန်တို့ကို ယူ၍ မီးတိုက်၏။

သာသနာတော်ကို ယင်းသို့ ဖျက်ဆီးဖုံ့မက လူတို့အားလည်း ညှဉ်းပန်းလွန်းလှသည်။ မြန်မာ မှူးမတ်များအားလည်း ရှမ်းမှူးမတ်တို့က စော်ကားဖန်များလှသဖြင့် မြန်မာတို့သည် သည်းမခံနိုင်ဖြစ်ကာ မင်းကြီး ရန်နောင်နှင့် တိုင်ပင်၍ အညီအညွတ် ပြုကြသည်။ သက္ကရာဇ် ၉၀၄ ခုနှစ် ကဆုန်လတွင် ရှမ်းမင်း သိုဟန်ဘွားအား ယာယီပြုသင့်သည်ဟု ပညာရှိတို့ လျှောက်၍ မနော်ရမ္မာဥယျာဉ်၌ ယာယီနန်း ဆောက်ကာ မြန်မာတို့ ကိုယ်နေရာ အမှတ်အသား ပြု၍ စွဲသည့် ဓားကို မြှုပ်ထားကြသည်။ ရှမ်းတို့အားမူ ယာယီနန်းထွက်ကြိုက် လက်နက်မပါ အယဉ်အကျေးလိုက်၍ နေရသည်ဆိုကာ လက်နက်မပါပဲ ခစားစေသည်။ ယာယီတဲ နန်းသို့ သိုဟန်ဘွားထွက်၍ စံစဉ် ရွှေနန်းကြော့ရှင်၏ ဓားအစွမ်းကိုရောက်အောင် မင်းကြီးရန်နောင်က စကားသွယ်၍ ပြောကာ ထိုဓားကို ပြဟန်နှင့် သိုဟန်ဘွားအား ခုတ်လိုက်ရာ သိုဟန်ဘွားနေရာတွင် ကျသည့်အပြင် မှီထားသော ဝါးပိုးတိုင်နှင့် ကြမ်းငါးချောင်း ပြတ်သော ဟူ၏။ မြန်မာအမတ်တို့သည်လည်း ရှမ်းအမတ်တို့အား ခုတ်ကြရာ အများအပြား သေကြကုန်လေသည်။

**သိုး။** ။ သိုးရိုင်းများကို အာရှတိုက်၊ အာဖရိကတိုက်၊ ဥရောပတိုက်နှင့် မြောက်အမေရိကတိုက်များတွင် ယနေ့တိုင် တွေ့မြင်ရသေးသည်။ သိုးရိုင်းများသည် တောင်ထူထပ်သော ကုန်းမြင့်ပိုင်းများပေါ်၌သာ နေတတ်ကြသဖြင့် မြေပြန့်တွင် မတွေ့နိုင်ချေ။ သိုးနှင့် ဆိတ်တို့သည် မျိုးချင်း အလွန်နီးစပ်ကြသဖြင့် သိုးရိုင်းအချို့တို့သည် ဆိတ်နှင့်ဆင်ဆင် တူကြသည်။ သိုးကို အလွယ်တကူနှင့် ယဉ်ပါးလာအောင် ပြုလုပ်နိုင်သည်ဟု ဆိုလျှင် ဆိုနိုင်၏။ သို့ရာတွင် မည်သည့် တိုင်းပြည်ကစ၍ သိုးကို ယဉ်ပါးလာအောင် ပြုလုပ် မွေးမြူခဲ့သည် ဟူ၍ကား မသိရချေ။ ယခု လူတို့မွေးမြူထားကြသော သိုးယဉ်များနှင့် အထက်တွင် ဖော်ပြခဲ့သော တိုင်းပြည်များ၌ တွေ့မြင်ရသည့် သိုးရိုင်းတို့မှာ ပုံပန်းသဏ္ဍာန်ချင်း ဆင်တူကြသည်ဟု မဆိုသာချေ။ ပုံစံဆိုလျှင် သိုးရိုင်းများတွင် ဦးချိုများထွက်လျက် ရှိကြသော်လည်း သိုးယဉ်များ၌ ဦးချိုမပါသော သိုးမျိုးများစွာ ရှိလေသည်။

သိုးရိုင်းများတွင် အမွေးကြမ်းရှိ၍ သိုးယဉ်တို့၌မူ သိုးမွေးခေါ် အမွေးနုများရှိကြသည်။ လူတို့သည် စာမရေးတတ်မီ ခေတ်မှစ၍ သိုးမွေးဖြင့် ခြည်ငင်၍ အထည်အဝတ်များ ရက်လုပ်ခဲ့ကြသည်ကို ထောက်ရှုခြင်းအားဖြင့် သိုးသည် လူတို့ ပဌမဆုံး ယဉ်ပါးလာအောင် ပြုလုပ်မွေးမြူကြသော တိရစ္ဆာန်ပင် ဖြစ်ဟန်တူသည်။ မည်သို့ပင် ဖြစ်စေ

အမွေးကြမ်းများသာ ရှိသော သိုးရိုင်းများကို အသုံးကျသော သိုးမွေးနုများရှိသည့် သိုးယဉ်များ ဖြစ်လာစေရန် နှစ် ရာပေါင်းများစွာ လူတို့ပြုပြင် မွေးမြူလာခဲ့ကြသည်ကို ကား ယုံမှားဖွယ်ရာမရှိချေ။ ယနေ့တွေ့မြင်ရသော သိုးမွေး အထွက်ကောင်းသည့် သိုးတကောင်မှရရှိသော သိုးမွေးချိန် သည် လွန်ခဲ့သော အနှစ် ၅၀ က သိုးတကောင်မှထွက်သည့် သိုးမွေးချိန်ထက် သုံးပုံတပုံမျှ ပိုကြောင်း သိရ၏။

ရောမစစ်သူကြီး ဂျူးလယပ် ဆီဇာ အင်္ဂလန်နိုင်ငံသို့ သွားရောက်ချိန်တွင် အင်္ဂလန် ပြည်သားတို့သည် သိုးကို မွေးမြူလျက်ရှိကြပြီးဖြစ်၍ ရောမလူမျိုးများသည် ထိုတိုင်း ပြည်၌ သိုးမွေးရက်သည့် လုပ်ငန်းကို စတင် တည်ထောင် ပေးခဲ့ကြသည်။ ထိုခေတ်အခါမှစ၍ ယနေ့ထက်တိုင် အင်္ဂလန်နိုင်ငံ၏ စီးပွားရေး ဖွံ့ဖြိုးမှုတရပ်သည် သိုးမွေးမြူခြင်း နှင့် သိုးမွေးရက်လုပ်ခြင်း လုပ်ငန်းများတွင် တည်လျက်ရှိ ပေသည်။ အင်္ဂလန်နိုင်ငံ၏ သမိုင်းသည် စင်စစ်အားဖြင့် သိုးမွေးလုပ်ငန်းစဉ် သမိုင်းမျှ ဖြစ်သည်ဟု ဆိုနိုင်ပေသည်။ ထိုကဲ့သို့ အင်္ဂလန်နိုင်ငံ၏ သမိုင်းတွင် သိုးမွေးလုပ်ငန်းသည် အလွန်အရေးပါ အရာရောက်သော အချက်တရပ် ဖြစ်သည့် အလျောက် ပါလီမန် အထက်လွှတ်တော် ဥက္ကဋ္ဌသည် သိုးမွေးထိုင်ဖုံပေါ်တွင် ထိုင်လေ့ရှိသည့် ထုံးတမ်းစဉ်လာမှာ ယခုထက်တိုင်တည်လျက်ရှိနေလေသည်။ (သိုးမွေး — ရှု။)

အမွေးတို သိုးမျိုးများတွင် ဆောက်ဒေါင်း သိုးမျိုးနှင့် ရှရော့ရှိုင်ယာ သိုးမျိုးတို့သည် အသားအတွက် ထင်ရှား သည်။ ကျန်သိုးများမှာ ဟမ့်ရှိုင်ယာ၊ ဆပ်ဖို့နှင့် ဒေါ ဆက်ဟွန်းတို့ဖြစ်၍ ဒေါဆက်ဟွန်း သိုးမျိုးတွင် အထီး နှင့်အမ နှစ်မျိုးလုံး၌ ဦးချိုများ ပါရှိသည်။ တောင်ကုန်း ဒေသများတွင် ခဲ့ဗီယော့မျိုး၊ စကော့တစ် ဗလက် ဖေ့မျိုး၊ အက်စမိုးမျိုးနှင့် ဒတ်မိုးမျိုးတို့ကို မွေးမြူကြသည်။ ဝေလသိုးမျိုးမှာ အသားအတွက် ထင်ရှားသည်။ အင်္ဂလိပ် လူမျိုးတို့သည် သိုးမျိုးကောင်းများကို နှစ်ပေါင်း ရှည်ကြာ စွာ မွေးမြူခဲ့ကြသည်ဖြစ်ရာ အင်္ဂလန်နိုင်ငံသည် ကမ္ဘာ ပေါ်တွင် သိုးမွေးထည် အကောင်းဆုံး ရက်လုပ်နိုင်သော တိုင်းပြည်ဖြစ်သည်။

သိုးမွေးမြူသည့်လုပ်ငန်း ကြီးကျယ်ထွန်းကားလျက် ရှိ သော တိုင်းနိုင်ငံဘို့မှာ ဩစတြေးလီးယား၊ နယူးဇီလန်၊ အာဂျင်တီးနား၊ အူရုဂွေး၊ ဗြိတိသျှကျွန်းစုနှင့် အမေရိကန် ပြည်ထောင်စုတို့ ဖြစ်သည်။ ထို တိုင်းနိုင်ငံများအနက် ဩစတြေးလီးယားနှင့် နယူးဇီလန် နိုင်ငံများသည် ယခု အချိန်တွင် ကမ္ဘာပေါ်၌ သိုးမွေးအများဆုံး ထွက်သော တိုင်းပြည်များ ဖြစ်ကြသည်။ ဩစတြေးလီးယားနိုင်ငံသည် အထူးသဖြင့် သိုးမွေးမြူရေးအတွက် သင့်တော်သည့် တိုင်း ပြည်ဖြစ်ရာ သိုးမွေးမြူသည့် ဌာနတခုလျှင် မြေကေပေါင်း



**သိုးမွေးအတွက် ပြုစုမွေးမြူထားသောသိုးများ**

၁၀၀,၀၀၀ မျှပင် ကျယ်ဝန်းလေသည်။ ဩစတြေးလီး ယား နိုင်ငံသည် သဘာဝအလျောက် သိုးစားကျက်ကြီး သဖွယ် ဖြစ်နေသည့်အပြင် ရာသီဥတုအခြေအနေမှာလည်း သိုးများအတွက် သင့်လျော်သဖြင့် ထို တိုင်းပြည်တွင် ကောက်ပဲသီးနှံ စိုက်ပျိုးရေးထက် သိုးမွေးမြူရေးက ပို၍ အကျိုးဖြစ်ထွန်းပေသည်။

သိုးများသည် အအုပ်အသင်း ဖွဲ့ကာ နေတတ်ကြ၍ ခေါင်းဆောင်သိုး ရှေ့ဆောင်ရာသို့သာ စုပြုံလျက် လိုက် တတ်လေသည်။ ရှေ့ဆောင်လမ်းပြသည့် သိုးမှာ အသက် အရွယ် ကြီးရင့်သော သိုးထီးဖြစ်သည်။ သိုးသည် အလွန် ကြောက်အားပိုတတ်သော သတ္တဝါဖြစ်သဖြင့် ရန်သူနှင့် ရင်ဆိုင်မိလျှင် ရှောင်ဖယ် ပြေးတတ်၏။ သို့သော် မလွှဲ မရှောင်သာသည့် အခါမျိုးနှင့် ကြုံလျှင် သိုးထီးများသာ မက သိုးမများကပင် ရန်သူကို ခုခံတွန်းလှန်ပစ်ကြသည်။ တခါတရံမပြေးသာသည့်အခါ ရန်သူနှင့်တွေ့လျှင် တကောင် နှင့်တကောင် တိုးဝှေ့ကာ စု၍နေလေ့ရှိကြသည်။ သိုးများ တနေရာမှတနေရာသို့ သွားကြသည့်အခါ၌လည်း တကောင် ချင်းမဟုတ်ပဲ အချင်းချင်း တိုးဝှေ့လျက် ခြေများ ရှုပ်ရှက် ခတ်မျှ ပူးတွဲ၍ သွားလာတတ်ကြသည်။ သိုးများတွင် ယင်း ကဲ့သို့ အချင်းချင်း တိုးဝှေ့ ပူးတွဲကာ နေတတ်သော အလေ့

အထမျိုးရှိသဖြင့် သားရဲတိရစ္ဆာန်များ သတ်ဖြတ်ကိုက်စားရန် လွယ်ကူလေသည်။ ထိုကြောင့်သာလျှင် ရှေးအခါမှစ၍ သိုးထိန်းသမားတို့သည် သူတို့၏သိုးစုကို ထိန်းကျောင်းရသည့် တာဝန်မှာ အလွန်ကြီးလေးလှပေ၏။ အဖက်ဖက်တွင် တိုးတက်လျက်ရှိသော ဤခေတ်၌ပင် သိုးထိန်းသမားတို့သည် တောသားရဲတို့၏ ရန်မှသော်၎င်း၊ သိုးသူခိုးများ၏ အန္တရာယ်မှသော်၎င်း ကာကွယ် စောင့်ရှောက် ပေးရလေသည်။ခွေးများသည် သိုးထိန်းသမားတို့၏ အားကိုးလောက်သော ကူဖော် လောင်ဖက်များ ဖြစ်ကြသည်။ သိုးထိန်းသမားတို့သည် သိုးများကို ဂရုတစိုက် မွေးမြူကြသကဲ့သို့ သိုးစောင့် ခွေးမျိုးကိုလည်း လက်သပ်မွေးထားကြသည်။

သိုးများတွင် တကြိမ်လျှင် သားတကောင်၊ သို့မဟုတ် နှစ်ကောင်ကျစီ ပေါက်ဖွားတတ်ကြသည်။ သိုးကလေးများသည် ပေါက်ဖွား၍ မကြာမီအတွင်း မိခင် နောက်သို့ တကောက်ကောက် လိုက်နေတတ်၏။

ဥရောပတိုက်တွင် ကော်စီကားနှင့်ဆာဒင်းနီးယားကျွန်းများ၌ မိုဖလွန်ခေါ် သိုးရိုင်းမျိုးကို တွေ့ရှိရသည်။ အာဖရိကတိုက် မြောက်ပိုင်း အက်တလပ်တောင်များတွင် ဦးဒတ်ခေါ် သိုးမျိုးများရှိသည်။ထိုဦးဒတ်သိုးမှာ အကောင်ကြီး၍ ဆိတ်နှင့်ဆင်ဆင်တူသည်။ ရင်အုပ်နှင့် ရှေ့လက်နှစ်ဖက်တွင် အမွေးရှည်များရှိ၍ ဦးချိုများမှာ ဆိတ်ချိုနှင့် ဆင်သည်။ တိဗက်နိုင်ငံတွင်ရှိသော အာဂလီသိုးမျိုး၌ ချိုကားကြီးများရှိသည်။သိုးရိုင်းများတွင် မာကိုပိုလိုသိုးမျိုးသည် အကောင်အထည် အကြီးဆုံး သိုးမျိုးဖြစ်၍ မြေပြင်အမြင့် ပေပေါင်း ၁၆,၀၀၀ မျှရှိသော ပါမီယာကုန်းမြင့်ပေါ်၌ တွေ့ရှိရသည်။ ဤသိုးမျိုးတွင် အောက်သို့ ကုပ်ကျလျက် အပြင်ဖက်သို့ အဖျား ကွေးလန်နေသော ဦးချိုကြီးများ ရှိသည်။ မြောက်အမေရိကတိုက်တွင် ရော့ကီး တောင်ပေါ်ရှိ သိုးရိုင်းများမှာ ထင်ရှားသည်။

အာရှတိုက်နှင့် အာဖရိကတိုက်တို့တွင် အမြီး၌ အဆီဗူးပါသော သိုးများရှိရာ ထိုအဆီကို လူတို့ စားသုံးကြသည်။ ထို့ပြင် အာရှတိုက်တွင် ရှိသော အက်စထရာခန် သိုးနှင့် ကရာကူ သိုးတို့၏ မွေးပြီးစ သိုးငယ်များမှ အလွန်နု၍ အထက်သို့ လိမ်တွန့်နေသော သိုးမွေး အကောင်းစားကို ရရှိလေသည်။ ထိုသိုးမွေးမျိုးမှာ ရတောင့်ရခဲသဖြင့် အလွန်အဖိုးထိုက်တန်သည်။

**သိုးမွေး။** ။ သိုးများ ကိုယ်ပေါ်တွင် ပေါက်သည့် သိုးမွေးသည် အခြားသတ္တဝါများ ကိုယ်ပေါ်တွင် ပေါက်သော သာမန် အမွေးမျိုးနှင့် တိုက်ရိုက် မတူချေ။ ခြားနားပုံမှာ သာမန် အမွေးမျိုးထက် သိုးမွေးက ပို၍ အမျှင်သေးသည်။ ပိုမို ပျော့ပျောင်း၍ ပိုမိုတွန့်လိမ်ရုံမက အလွန် သေးငယ်၍ တခုပေါ်တခု ထပ်ဆင့်နေသော အကြေးကလေးများလည်း မြောက်မြားစွာ ပါရှိသည်။ အဆိုပါ အကြေးကလေးများကြောင့် သိုးမွေး အမျှင်များသည် တခုနှင့်တခု ယှက်တင်တွယ်ကပ်လျက်ရှိ၍ တွန့်လိမ်နေသည့်အတွက် သိုးမွေးချည်မျှင်များသည် ပြေမထွက်နိုင်အောင် ခိုင်မြဲကြသည်။ ကျုံ့နိုင် ကန်နိုင်ခြင်းမှာလည်း သိုးမွေး၏ အရည်အချင်းတခုဖြစ်၏။ ဤအရည်အချင်းများ ရှိခြင်းကြောင့် အေးသော ဒေသနှင့် အေးသော ရာသီတွင် ဝတ်ဆင်ရန် အထည်များ ရက်လုပ်ရာ၌ သိုးမွေးကို အခြား မည်သည့် အမွေးမျိုးမှ မမှီနိုင်ပေ။ သိုးမွေးသည် ပေါ့ပါး၍ ပြင်ပ အအေးနှင့် စိုထိုင်းမှုကို ကာကွယ်ပေးနိုင်သည်။ ထိုကြောင့်ပင် သိုးကို လူတို့အဖို့ အရေးအကြီးဆုံးသော သတ္တဝါများစာရင်းတွင် ထည့်သွင်းထားကြရပေသည်။ (သိုး — ရှု။)

သိုးများသည် မည်သည့်အရပ်မှ စတင် ရောက်ရှိလာကြသည်ကို မည်သူမျှ တတ်အပ်သေချာစွာ မပြောနိုင်ချေ။ သို့ရာတွင် လူတို့သည် စာရေး စာဖတ် မတတ်မီ ကာလကပင် သိုးများကို ယဉ်ကျေးအောင် မွေးမြူ၍ သိုးမွေးမှ အထည်များဖြစ်အောင် ရက်လုပ်လာခဲ့ကြပေသည်။တောင်အမေရိကတိုက်နှင့် ဩစတြေးလီးယား တိုက်တို့မှ လွဲလျှင် အာရှတိုက်၊ အာဖရိကတိုက်၊ ဥရောပတိုက်နှင့် မြောက်



သိုးမွေးများ ညှပ်ယူနေစဉ်

အမေရိကတိုက်တို့တွင် ယခုတိုင် သိုးရိုင်းများ ရှိကြသေးသည်။ သိုးရိုင်းများတွင် သိုးမွေးများစွာ မရှိချေ။ သာမန်အမွေးလောက်ကိုသာ တွေ့နိုင်လေသည်။ သို့သော် ထိုသိုးရိုင်းများကို ယဉ်ကျေးအောင် လွယ်ကူစွာ ပြုလုပ်နိုင်၍ နှစ်ပေါင်းများစွာ စံနစ်တကျ ပြုစု မွေးမြူပေးနိုင်လျှင် ယင်းတို့မှ သိုးမွေးကောင်းများ ပိုမိုရနိုင်သည်။ ယခုအခါ သိုးတကောင်မှ လွန်ခဲ့သော နှစ်ပေါင်း ၅၀ ခန့်က သိုးတကောင်ထက် သိုးမွေးသုံးပုံတပုံ ပို၍ထွက်သည်ကို တွေ့နေရလေသည်။

အင်္ဂလန်နိုင်ငံတွင် ရောမလူမျိုးတို့မရောက်မီ အချိန်ကပင် အင်္ဂလိပ် တိုင်းရင်းသားတို့သည် သိုးများကို မွေးမြူလျက် ရှိကြသည်။ ရောမ လူမျိုးတို့ ရောက်လာသောအခါ ရက်ကန်း လုပ်ငန်းကို စတင် တည်ထောင်ပေးခဲ့ကြသည်။ ထိုအခါမှစ၍ အင်္ဂလန်နိုင်ငံတွင် သိုးများကို မွေးကာ သိုးမွေးထည်များကို ရက်လုပ်လာခဲ့ကြရာ အင်္ဂလန်နိုင်ငံကို ချမ်းသာလာသော တိုင်းပြည်တပြည် ဖြစ်လာအောင် ဖန်တီးပေးခဲ့သည့် အဓိက လုပ်ငန်းများတွင် သိုးမွေး လုပ်ငန်းလည်း တခု အပါအဝင် ဖြစ်ပေသည်။ အင်္ဂလန်နိုင်ငံ၏ သမိုင်းသည် သိုးမွေးလုပ်ငန်း သမိုင်းပင် ဖြစ်သည်ဟု ဆိုလျှင် မမှားနိုင်ချေ။ အင်္ဂလန်နိုင်ငံတွင် ယော့ရှိုင်ယာနယ်သည် သိုးမွေးလုပ်ငန်း၌ အထင်ရှားဆုံးသော နယ်ဖြစ်သည်။

ဗြိတိသျှ သိုးများမှရသော သိုးမွေးသည် အခြားတိုင်းပြည်မှရသော သိုးမွေးမျိုးထက် ရှည်သောကြောင့် ထင်ရှားခဲ့သည်။ ဗြိတိသျှ သိုးများတွင် အမျိုးအစား အများအပြားရှိရာ ယင်းတို့ကို မွေးမြူရာ နယ်ပယ်တို့၏ အမည်များဖြင့် ခေါ်ဝေါ်လေ့ရှိကြသည်။ အင်္ဂလန်နိုင်ငံတွင် သိုးများကို မွေးမြူလာခဲ့ကြသည်မှာ ကာလကြာပြီ ဖြစ်သည့်အတိုင်း သိုးမွေးနှင့် သိုးမွေး ရက်လုပ်သည့် လုပ်ငန်းဖက်တွင် အခြားနိုင်ငံများထက် ကျော်ကြားလေသည်။ ယနေ့တိုင်အောင်ပင်လျှင် အကောင်းဆုံး သိုးမွေးထည်များကို အင်္ဂလန်နိုင်ငံမှသာလျှင် ရနိုင်၏။ သို့ရာတွင် အင်္ဂလန်နိုင်ငံ၌ ပြည်တွင်းမှရသော သိုးမွေးများဖြင့် မလုံလောက်သည့်အတွက် နှစ်စဉ်နှစ်တိုင်း နိုင်ငံခြားများမှ အထူးသဖြင့် ဩစတြေးလီးယားနှင့် နယူးဇီလန်နိုင်ငံများမှ အမြောက်အများ ဝယ်ယူ တင်သွင်းရပေသေးသည်။

ဗြိတိသျှကျွန်းစုမှရသော သိုးမွေးသည် အရှည်ဆုံး ဖြစ်စေကာမူ အနူးညံ့ဆုံးဟူ၍ကား မပြောနိုင်ချေ။ မယ်ရီနိုဟူသည့် သိုးမျိုးမှရသော သိုးမွေးသည် အင်္ဂလန်နိုင်ငံမှရသော သိုးမွေးတို့ကဲ့သို့ မရှည်ပဲ အမွေးပို၍ ထွက်သည်။ မယ်ရီနို သိုးတကောင်လျှင် သိုးမွေး ၂၈ ပေါင်ခန့် ထွက်သည်။ အမွေးလည်း ပို၍ နူးညံ့သည်။ မယ်ရီနို သိုးမွေးမျိုးကို စပိန်နိုင်ငံမှ ရပြီးလျှင် ထိုသိုးမွေးမျိုးသည် ရှေးနှစ်ပေါင်း များစွာမှစ၍ ယနေ့တိုင်အောင် ကမ္ဘာပေါ်တွင် အထင်ရှားဆုံး သိုးမွေးဖြစ်လေသည်။ သိုးမွေးမြူသူတို့သည် နိုင်ငံအသီးအသီးမှ မျိုးကောင်း သိုးများကို ယူပြီးလျှင် အကောင်းဆုံး သိုးများဖြစ်အောင် ဂရုစိုက် မွေးမြူကြသည်။ အချို့ဒေသတွင် မျိုးစပ်ယူသူလည်းရှိ၏။ မည်သည့် အရပ်ဒေသတွင် မွေးမြူသည်ဖြစ်စေ၊ သိုးများကို မွေးမြူရာ၌ သိုးမွေး ပိုထွက်စေရန်နှင့် ပို၍ ကောင်းသော သိုးမွေးမျိုး ရစေရန်မှာ အဓိက ရည်ရွယ်ချက်ပင် ဖြစ်လေသည်။

စပိန်နိုင်ငံမှ မယ်ရီနို သိုးမျိုးသည် ပြင်သစ်နိုင်ငံနှင့် ဂျာမနီ နိုင်ငံတို့သို့လည်း ရောက်ရှိ မျိုးပွားသွားသည်။ ဤနည်းဖြင့် အမျိုးကောင်း သိုးမျိုးများသည် ဥရောပတိုက်တွင် တဖြည်းဖြည်း ပြန့်ပွားလာသည်။ ပြင်သစ်နှင့် ဗြိတိန်နိုင်ငံမှ သိုးများသည် တောင်အမေရိကတိုက်သို့၎င်း၊ မယ်ရီနို သိုးမျိုးသည် တောင်အာဖရိကတိုက်သို့၎င်း ရောက်ရှိသွားပြန်သည်။ တဖန် မယ်ရီနို သိုးမျိုးနှင့် ဗြိတိသျှသိုးမျိုးများသည် ဩစတြေးလီးယားနှင့် နယူးဇီလန်နိုင်ငံများသို့ ရောက်ရှိသွားသည်။ ယခုအခါ ထိုနိုင်ငံများမှ အခြားနိုင်ငံများထက်ပင် သိုးမွေးများ ပို၍ ထွက်လျက်ရှိပေသည်။ အမေရိကန် ပြည်ထောင်စု၌လည်း အပြည်ပြည်မှ သိုးအမျိုးမျိုး တင်သွင်း၍ မျိုးအမျိုးမျိုးစပ်ကာ အကြီးအကျယ် မွေးမြူလျက်ရှိပေသည်။

သိုးမွေး အကောင်းအဆိုးသည် သိုး၏ ကျန်းမာရေး၊ ပတ်ဝန်းကျင်ရာသီဥတု၊ သိုးမွေးသူ၏ ဂရုတစိုက်မွေးမြူတတ်မှုပေါ်တွင်လည်း တည်သည်။ ကောင်းစွာကျွေးမွေးထိန်းကျောင်းခြင်းမခံရသောသိုး၏အမွေးသည်ကြမ်းတတ်သည်။

သာမန်အားဖြင့် သိုးမွေးကို တနှစ်လျှင်တကြိမ်ကျ ဧပြီလနှင့် မေလတို့တွင် ညှပ်ယူလေ့ ရှိကြသည်။ ပူအိုက်သောတိုင်းနိုင်ငံများတွင်မူ တခါတရံ နှစ်ကြိမ်ပင် ညှပ်ယူကြသေး၏။ သိုးရှစ်လသား အရွယ်လောက်တွင် သိုးမွေး ပဌမအကြိမ် ညှပ်ယူ၍ ထိုသိုးကလေး အမွေးမှာ အကောင်းဆုံးဖြစ်ပေသည်။ သိုးကိုယ်ပေါ်တွင် နေရာကို လိုက်၍လည်း သိုးမွေး အကောင်းအညံ့ ဖြစ်နိုင်ရာ သိုးကိုယ်နံဘေးနှင့် ပခုံးမှ ရသော သိုးမွေးမှာ တကိုယ်လုံးရှိသိုးမွေးများအနက် အကောင်းဆုံး ဖြစ်လေသည်။ သာမန်အားဖြင့် သိုးမွေးကို ကျွမ်းကျင်သူကိုယ်တိုင် လက်ဖြင့် ညှပ်ယူကြသော်လည်း သိုးအကြီးအကျယ် မွေးမြူသော နေရာများ၌မူ စက်ဖြင့် ညှပ်ယူကြလေသည်။ လက်ဖြင့် ညှပ်ယူကြသောအခါ လူတယောက်သည် တနေ့လျှင် သိုးကောင်ရေ ၂၅ ကောင် အထိသာ ညှပ်နိုင်၍ စက်ဖြင့်ညှပ်ပါက အကောင် ၂၀၀ မျှ ပြီးနိုင်လေသည်။

စင်ကြယ်သော သိုးမွေးများ ရနိုင်စေရန် သိုးကို အမွေး မညှပ်မီ တကြိမ် နှစ်ကြိမ်လောက် ရေချိုးပေးရသည်။ သို့ မဟုတ် ရေကူးစေရသည်။ သို့တိုင်အောင် လုံးဝ မစင်ကြယ် သေးသည့်အတွက် ညှပ်ပြီးသား သိုးမွေးကို စေ့စပ်သေချာ စွာ ထပ်မံ၍ ဆေးကြော ပေးရသေး၏။ ထိုအခါ ဖုန်အညစ် အကြေးများသာမက သိုးမွေးတွင် ပါရှိသော ဆီများပါ ကင်းစင်သွားလေသည်။ ထိုနောက် သိုးမွေးများကို အ ခြောက်ခံပေးရ၏။ ထိုနောက်တဖန် မငင်မရက်မီ သိုးမွေး အကောင်း အညံ့ကိုလိုက်၍ငင်း၊ ရက်လုပ်မည့် အထည်ကို လိုက်၍ငင်း နည်းအမျိုးမျိုးဖြင့် ပြုလုပ် စီမံရပြန်သည်။ ပြုပြင်ရာတွင် ရှုပ်ထွေးနေသော သိုးမွေးများကို ဖြေပေးရ သည်။ အဖုအထုံးများကို ခတ်ဆေးများ စက်များဖြင့် ရှင်းလင်း ပေးရသည်။ ရက်လုပ်မည့် အထည်ကို လိုက်၍ ဝါခြည်၊ ပိုးခြည်စသည်များနှင့် လိုသလို ရောပေးရသည်။ ထိုနောက် သိုးမွေးများကို မူလအတိုင်း ပြန်လည် ပျော့ ပျောင်းစေရန် ဆီထည့်ပေးရပြန်သည်။ လိမ်ကောက်၍မနေ အောင်လည်း ဘီးများဖြင့် ဆန့်ပေး၊ ဖြီးပေးရ၏။ ထိုပြင် အခြား အသေးစိတ် ပြုပြင်မှု များလည်း ရှိသေးရာ ယင်းပြုပြင်မှု အားလုံးကိုပင် စက်များဖြင့် ပြုလုပ်ယူကြ လေသည်။

သိုးမွေးကို မငင်မီသော်ငင်း၊ ရက်ပြီးမှသော်ငင်း လို သည့် အရောင်ကို ဆိုးပေးနိုင်သည်။ အထည်ဖြစ်ပြီးသော အခါ ကျုံ့သွားအောင် ချုံးပေးရပြန်၏။ ထိုသို့ မလုပ်ပေး ပါက အဝတ်အစား ချုပ်ပြီးနောက် တခါဝတ်ပြီးလျှင် ဝတ်၍ မရအောင် တိုသွား ကျုံ့သွားတတ်ပေသည်။ တဖန် ရက်ပြီးသား အထည်ပေါ်တွင် အမွေးနုများ အစထောင် လာအောင် စက်ဖြင့် ပြုလုပ်ပေး၍ အခြားစက်ဖြင့် တဖန် ထိုထောင်နေသည့် အမွေးစများကို ညီအောင် ညှိပေးရ ပြန်သည်။ နောက်ဆုံးတွင် အထည်ကို ခြောက်သွေ့ ပြား ချပ်၍ အရောင်တောက်လာအောင် စက်အမျိုးမျိုးဖြင့် ဖိနှိပ် ပြုပြင်ပြီးသောအခါ ထိုသိုးမွေးထည်မှာ ရောင်းချရန် အသင့် ဖြစ်လေတော့သည်။

သိုးမွေးထည်တွင်သိုးမွေးစောင်ကဲ့သို့သော အထည်မျိုး နှင့် သက္ကလတ်ကဲ့သို့သော အထည်မျိုးဟူ၍ နှစ်မျိုးနှစ်စား ရှိသည်။ သိုးမွေးစောင်ကဲ့သို့သော အထည်မျိုးတွင် သိုး မွေး ခြည်မျှင်ကို သိုးမွေးအတိုစားမျိုးမှ ငင်ယူ၍ ခြည်မျှင်၌ ပါဝင်နေသော အမျှင်များသည် အစီအရီ မဟုတ်ပဲ ဖြစ် ချင်သလို ဖြစ်နေကြသည်။ ဤအထည်မျိုးမှာ အမွေး ပွ၍ ပျော့ပျောင်း၏။ သက္ကလတ်ကဲ့သို့သော အထည်မျိုးတွင်မူ ခြည်မျှင်ကို သိုးမွေး အရှည်စားမျိုးမှ ငင်ယူ၍ ခြည်မျှင်၌ ပါဝင်သော အမျှင်များကို တဖက်သတ် အစီအရီ ဖြစ်နေ အောင် ပြုလုပ်ထားသည်။ ထိုကြောင့် ထိုအထည်မျိုးသည် အမွေးပွမနေပဲ ညက်ညော၍ ကျစ်ကျစ်လျစ်လျစ် ရှိ လေသည်။

တနှစ်တနှစ်လျှင်တကမ္ဘာလုံးမှသိုးမွေးအလေးချိန်ပေါင် သန်းပေါင်းမြောက်မြားစွာ ထွက်ရာ ဩစတြေးလီးယား တနိုင်ငံတည်းမှ လေးပုံတပုံကျော်ကျော်မျှ ထွက်သဖြင့် သိုးမွေးလုပ်ငန်း၌ ကမ္ဘာတွင် ဗိုလ်စွဲသည်ဟု သိရလေသည်။

ကောင်းသည့် နေရာတွင် သိုးမွေးကို မမှီသော်လည်း သိုးမွေးနှင့် နီးစပ် ဆင်တူ၍ ရောင်းတမ်းအားဖြင့် သိုးမွေး ဟုပင် ခေါ်လေ့ရှိသော အမွေးတမျိုး ရှိသေးသည်။ ယင်း တို့မှာ အန်ဂိုရာဆိတ်မျိုးမှ ရသော မိုးဟဲယားခေါ် အမွေး နှင့် အယ်လပတ်ကား ကုလားအုပ်မျိုးမှ ရသော အယ် လပတ်ကား အမွေးမျိုးတို့ ဖြစ်လေသည်။

**သက္က**။ ။သိကြား — ရှု။

# ရှေးပညာရှင်တို့ နှစ်သက်မြတ်နိုးသော ဘာသာစကားကြီးနှစ်ရပ်

ရှေးခေတ် အိန္ဒိယနိုင်ငံ၌ ထွန်းကား စည်ပင်ခဲ့သော သက္ကတနှင့် ပါဠိဘာသာ၊ စကားလုံး ဝေါဟာရ ကြွယ်ဝကြခြင်း၊ အိန္ဒိယသားတို့ မြတ်နိုးသော သက္ကတ ဘာသာသည် ပါဠိဘာသာကို အထောက်အကူပြုသည်။ မာဂဓဘာသာ၊ မူလဘာသာ ဟုလည်း ခေါ်တွင်သော ပါဠိဘာသာ၊ ဗုဒ္ဓရှင်တော်မြတ်၏ တရားအဆိအနှစ်တို့ကို ပါဠိဘာသာ ကျမ်းကျင်လျှင် ပို၍ အရသာတွေ့နိုင်သည်။

**သက္ကတနှင့် ပါဠိဘာသာ**။ ။သ က္က တ ဘာ သာ ဟူသောပုဒ်၌ သက္ကတ သဒ္ဒါသည် သံ သဒ္ဒါနှင့် ကတ သဒ္ဒါ တို့စပ်၍ ဖြစ်လာသော သဒ္ဒါတခုဟု ယူဆကြသည်။ ထို ကြောင့် ကောင်းစွာ ပြုလုပ်ထားအပ်သည်ဟု အဓိပ္ပာယ် ပြန်ဆိုကြသည်။ သို့ဖြစ်၍ ပုဒ်မှန်မှာ သက္ကတ မဟုတ်၊ သခ်တသာ ဖြစ်သင့်သည်ဟု အချို့ပညာရှိများ ဆို ကြလေသည်။

တနည်း–သန္တ+ကတမှ သက္ကတပုဒ် ဖြစ်လာသည်ဟု ယူဆနိုင်ပေသည်။ ထိုသို့ ယူဆရာ၌ သူတော်စင်ပညာရှိများ တီထွင်ထားအပ်သည်ဟု အဓိပ္ပာယ်ရသည်။

'ဆန်းစကရစ်'ဟူ၍လည်း ခေါ်သော ထိုသက္ကတ ဘာသာသည် ဣန္ဒိယနိုင်ငံသားတို့ အမြတ်နိုးဆုံးဖြစ်သော ဘာသာ ဖြစ်သည်။ ယင်းဘာသာကို နတ်တို့ ပြောဆို သုံးစွဲသည့်ဘာသာဟု အမှန်းတင်ကာ 'ဒေဝဘာသာ' ဟုပင် ခေါ်ဝေါ်သမုတ်ကြသည်။ ဗုဒ္ဓဝါဒီ မြန်မာလူမျိုးတို့သည် ပါဠိဘာသာ တတ်ကျွမ်းသူကို လေးစား ကြည်ညိုကြသကဲ့သို့ ဟိန္ဒူလူမျိုးတို့သည်လည်း သက္ကတဘာသာ တတ်ကျွမ်းသူ ပဏ္ဍိတ်များကို အထူးကြည်ညိုဆည်းကပ်လေ့ ရှိကြ၏။

ဤသက္ကတဘာသာကို ဂေါတမမြတ်စွာဘုရား မပွင့်မီ ရှေးကျသော အချိန်ကပင် ပုဏ္ဏားပညာရှိ ရသေ့ပညာရှိတို့သည် သဒ္ဒါနည်းတို့ဖြင့် ကောင်းစွာ ပြုပြင်၍ ထားကြကုန်၏။ ထိုသဒ္ဒါနည်းတို့ကို ပြဆိုသော ကျမ်းပေါင်းများစွာ ရှိသည့်အနက် ကြီးကျယ်ခမ်းနားဆုံးဖြစ်သော ကျမ်းကား ပါဏိနိ မည်သော ကျမ်းကြီး ဖြစ်ပေသည်။ ထိုကျမ်းကို ဖါဏိနိ၊ ကာတျာယန၊ ပတဉ္စလိ ဟူသော ပညာရှိ ရသေ့သုံးဦးတို့ ပေါင်းစပ် ပြုစုသည်ကို အကြောင်းပြု၍ 'တိမုနိဗျာကရဏ' ဟူ၍လည်း ခေါ်ဆိုလေသည်။ ပေါင်းစပ် ပြုစုပုံမှာ ပါဏိနိ ရသေ့သည် ဆောင်ပုဒ်ဖြစ်သော သုတ်ကို စီရင်ရေးသားသည်။ ကာတျာယန ရသေ့သည် သုတ်၏ အနက် အဓိပ္ပာယ်ကို ပေါ်လွင်အောင် ဖွင့်ပြသည့် ဝုတ္တိကို ပြုစု၏။ ပတဉ္စလိ ရသေ့သည်ကား ထိုသုတ် ဝုတ္တိတို့နှင့် ဆီလျော် လိုက်လျောသည့် ပြယုဂ် ဥဒါဟရဏ် ပုံစံ သာဓကပုဒ်တို့ကို ထုတ်နုတ် ဖော်ပြ ရေးသားလေသည်။ ဤပါဏိနိ ကျမ်းကြီးသည် သက္ကတဘာသာ သဒ္ဒါနည်းနာနယတို့ကို စုံစုံလင်လင် ပြဆိုထားသော ကျမ်း ဖြစ်သဖြင့် သက္ကတ လိုက်စားသူတို့အဖို့ အထူးအားထား မှီခိုလောက်သော သဒ္ဒါကျမ်းကြီး ဖြစ်ပေသည်။

ထို့ပြင် ကပ္ပဒ္ဒုမ၊သဒ္ဒတ္ထောမ မဟာနိမိစသောကျမ်းများသည် သက္ကတ ဘာသာသုံး အမည်နာမ ဝေါဟာရတို့ကို ပြဆိုသော အဘိဓာန်ကျမ်းမျိုး ဖြစ်ကုန်၏။ ရာမ သမ္ဘ စသော ကျမ်းတို့ကား ဝါကျ ပဗန္ဓတို့၏ ဂုဏ်အပြစ်တို့ကို စိစစ်ဝေဖန်ပြသော အလင်္ကာကျမ်းမျိုးတို့တည်း။ ဂါထာဗန္ဓ ဖွဲ့နွဲ့စီကုံးရာ၌ ဂိုဏ်း ဂရု လဟု အနေအထားကို ခွဲခြားပြသောဆန်းကျမ်းတို့ကား ပိင်္ဂလ၊ ဝုတ္တာ ရတနာကရ စသော ကျမ်းများ ဖြစ်ကြလေသည်။

ဤသို့ သဒ္ဒါနည်း၊ အလင်္ကာနည်း၊ ဆန်းနည်းတို့ဖြင့် ထယ်ဝါ ခန့်ညားစွာ မားမားမတ်မတ် တည်နေသော ဘာသာကြီးတရပ် ဖြစ်နေသည့်အလျောက် အိန္ဒိယနိုင်ငံတွင် ထိပ်တန်းသို့ ရောက်ရှိနေသည်နှင့်အညီ ရှေးရှေးပညာရှိကြီးများသည် ယင်းဘာသာနှင့်ပင် ဆေးဝါးဖက်ဆိုင်ရာ၊နက္ခတ် ဗေဒင်ဖက်ဆိုင်ရာ၊ ယဉ်ကျေးမှုနှင့်ဆိုင်ရာ စသော အဖိုးတန် ပညာရပ်များကို ရေးသား ပြုစုထားခဲ့ကြပေသည်။ ထိုကြောင့် သုငါကစ ကြားဘူးနေကြသော ဝိဇ္ဇာခေါ် နှုတ်မှုပညာ ၁၈ မျိုးကို ဗိသဏုပုရာဏ် စသော သက္ကတ ကျမ်းစာများ၌ရင်း၊ သိပ္ပံခေါ် လက်မှုပညာ ၃၂ မျိုး၊ ၆၄ မျိုးတို့ကို သုကြနီတိ စသော သက္ကတကျမ်းစာများ၌ရင်း အပြည့်အစုံ တွေ့ရှိနိုင်လေသည်။

ကျွန်ုပ်တို့ မြန်မာနိုင်ငံတွင် ထင်ရှားကျော်စောလျက်ရှိနေသော ဗြိဟ္မပ်၊ ရာဇမတ္တဏ် စသော ဗေဒင်ကျမ်း၊ သုဿုတ၊သာရကောမုဒီ စသောဆေးကျမ်းများမှာလည်းသက္ကတ ဘာသာ ကျမ်းများပင် ဖြစ်လေသည်။ များစွာသော ဗေဒင်ကျမ်း ဆေးကျမ်းတို့မှာ မြန်မာ ပြန်ထားသည်တို့ကို တွေ့ရလေသည်။ ယင်းသို့ မြန်မာတို့၏ ဆေးပညာ ဗေဒင်ပညာတို့သည်လည်း သက္ကတကို များသောအားဖြင့် မှီငြမ်း ပြုရကြောင်း ထင်ရှားလေသည်။

ပါဠိဘာသာ ပုဒ်ပါဌ် မှန်ကန်ရေးတွင်လည်း သက္ကတ ဘာသာသည် များစွာ အသုံးဝင်လေသည်။ အမြွက်မျှ ရှင်းပြပါဦးအံ့။ ပါဠိဘာသာ၌ မမေ့မလျော့ခြင်း အနက်ကို ဟောသော ပုဒ်သည် အပမာဒဟု ဒွေးဘော်မဲ့နှင့် တမျိုး၊ အပ္ပမာဒဟု ဒွေးဘော်နှင့်တမျိုး၊ ဤ မူနှစ်မျိုး နှစ်ထွေကွဲပြားလျက် ရှိနေသည်ကို တွေ့ရှိရာတွင် မည်သည့်ပါဌ်ကို အတည်ပြု လက်ခံသင့်သနည်းဟု စိစစ်ပါက သက္ကတ၌ မမေ့လျော့ခြင်း အနက်ဟောပုဒ်မှာ ပြမာဒဟု အစအက္ခရာ၌ သံယုဂ်ပါသည်ကို အထောက်အထားပြု၍ အ+ပ္ပမာဒဟု ဒွေးဘော်သံယုဂ်နှင့်နေသောပါဌ်ကိုသာ အတည်ပြုဆုံးဖြတ်ရလေသည်။ ဤနည်းအတူပင် သုပဋိပန္နော–သုပ္ပဋိပန္နော ပါဌ်နှစ်ထွေ ရှိနေရာတို့၌လည်း ပြတိဟု သံယုဂ်နှင့် သက္ကတရှိသည်ကို ထောက်ထား၍ သု+ပ္ပဋိပန္နောကို အမှန်ဟု ဆုံးဖြတ်ရပေမည်။ ဤနည်းနှင်နှင် သက္ကတကို မှီ၍ ဆုံးဖြတ်မှ အမှန်သို့ ရောက်နိုင်သော ပါဠိပုဒ် အမြောက်အမြားရှိသောကြောင့် သက္ကတသည် ပါဠိ ဘာသာတွင်လည်း များစွာ အထောက်အကူ ပေးနိုင်သော ဘာသာဟု ဆိုအပ်လှပေသည်။ ထို့ကြောင့်ပင် ပါဠိသဒ္ဒါကျမ်းကြီးများတွင် ဘုရားဟော ပါဠိနှင့် မဆန့်ကျင်သည့် သက္ကတကျမ်းသုံး နည်းနာနယ အစီအရင် အမည်နာမများကို အတော်များများ ယူငင်သုံးစွဲ ပြသထားကြလေသည်။ ယင်းသို့ သုံးစွဲနိုင်ရန်လည်း'ပရ သမညာ ပယောဂေ' ဟူသော သုတ်ဖြင့် သီးခြား ခွင့်ပြုထားလေသည်။ ဤမျှဖြင့် သက္ကတဘာသာ၏ နယ်ကျယ်ဝန်းပုံကို သိနိုင်လောက်ပေပြီ။

ပါဠိဘာသာ၏ မူလအခြေတည်ရှိရာဌာနလည်း သက္ကတဘာသာမှာကဲ့သို့ပင် ဣန္ဒိယပြည်ဖြစ်သည်။ ဣန္ဒိယပြည်တွင်လည်း မဂဓတိုင်း၌ပြောဆိုသုံးစွဲသောဘာသာဖြစ်၍ယင်းကို မာဂဓဘာသာဟု ခေါ်သည်။ ကမ္ဘာပေါ်တွင် ပဌမ ပေါ်သော ဘာသာဖြစ်၍ မူလဘာသာ ဟူ၍လည်း ခေါ်သည်။

ထိုမာဂဓ မူလ ဘာသာကို ကမ္ဘာဦး သူတို့သည်၎င်း၊ ဗြဟ္မာတို့သည်၎င်း၊ သူတပါး စကားကို မကြားရသော ကလေးသူငယ်တို့သည်၎င်း၊မြတ်စွာဘုရားတို့သည်၎င်း ပြောဆို သုံးစွဲကြသည်ဟု ကျမ်းဂန်များ၌ ပြဆို၏။

ယင်းသို့ ကမ္ဘာဦးအခါမှစ၍ အစဉ်အလာ သုံးစွဲ၍ လာခဲ့သော ထိုပါဠိဘာသာသည် အပြစ်ဒေါသတို့မှ လွတ်ကင်း၍ သန့်ရှင်းစင်ကြယ်သော ဘာသာစကားရင်း ဖြစ်၏။

ဘာသာစကားတို့တွင် အချို့အချို့သောဘာသာစကားတို့၌ အက္ခရာတွေသာ များပြီး အနက်အဓိပ္ပာယ် ကျဉ်းမြောင်းခြင်း၊ အသိခက်သော အနက်အဓိပ္ပာယ်ရှိခြင်း၊ပြည့်စုံသော ဝေါဟာရမရှိခြင်း၊ ဝိသဇ္ဇနီသံများခြင်း၊ နှာခေါင်းသံ လွှမ်းမိုးခြင်း၊ မပီပြင်သော အက္ခရာသံရှိခြင်း၊အသံထွက်ကြမ်းထမ်းခြင်း၊ အက္ခရာဗျည်း အလွန်များခြင်း၊ သို့မဟုတ် အလွန်နည်းပါးခြင်း စသော ချွတ်ယွင်းချက်များ အသီးအသီး ရှိနေကြသည်။ ပါဠိဘာသာကား ဤချွတ်ယွင်းချက်မျိုးမှ ကင်းစင်၍ သဒ္ဒါအားဖြင့်၎င်း၊ အနက်အားဖြင့်၎င်း ပြည့်ဝ၍ သာတ္တ သဗျဉ္ဇန ဂုဏ်နှင့် ပြည့်စုံသော ဘာသာကြီးတခု ဖြစ်ပေသည်။

ယင်းသို့ သာတ္တ သဗျဉ္ဇန ဂုဏ်နှင့် ပြည့်စုံသောကြောင့် ဘုရားမှခပါဌ် ပရိယတ်ကို စောင့်ရှောက်နိုင်သော ဘာသာဖြစ်၍ ပါတိ ရက္ခတီတိ ပါဠိ ဟူသော ဝစနတ္ထနှင့်အညီ ပါဠိဟူ၍ ခေါ်ဆိုရသည်။

ထိုပါဠိဘာသာ၏ အရေးကြီးပုံကို ဝိနည်းဖက်ဆိုင်ရာသို့ ရောက်လျှင် အလွန်ထင်ရှား၏။ ထိုစကား မှန်၏။ ရှင်ပြုခြင်း၊ ဥပသမ္ပဒကံ ဆောင်ခြင်း စသည်ကို အခြား ဘာသာမျိုးဖြင့် ဆောင်ရွက်၍ ထိုကံများ အောင်မြင်ပြီးမြောက်နိုင်ကြမည် မဟုတ်ပဲ၊ ပါဠိဘာသာဖြင့် စည်းကမ်း ကျနစွာ ရွတ်ဖတ် ဆောင်ရွက်မှသာ ထိုကံများ အောင်မြင်ပြီးမြောက်နိုင်ကြမည် ဖြစ်ပေသည်။ ထိုပြင် ဤကမ္ဘာအတွင်း၌ ပွင့်တော်မူကြကုန်သော ကကုသန် အစရှိကုန်သော ဘုရားတို့သည်၎င်း၊ ရှေးရှေးသော ကမ္ဘာတို့၌ ပွင့်တော်မူကြကုန်သော ဘုရားတို့သည်၎င်း ထိုပါဠိဘာသာဖြင့်သာလျှင် ကျွတ်ထိုက်သော ဝေနေယျသတ္တဝါတို့အား တရားဓမ္မ ညွှန်ပြ ဟောကြားတော်မူကုန်၏။

အကျွန်ုပ်တို့ဂေါတမမြတ်စွာဘုရားသည်လည်း ဝေနေယျသတ္တဝါတို့အား တရားရေအေး တိုက်ကျွေးဝေငှ ဆုံးမတော်မူသောအခါတို့၌ ထိုပါဠိဘာသာဖြင့်သာလျှင် ဟောကြား ညွှန်ပြ ဆုံးမတော်မူခဲ့ပေ၏။

နောက်နောင် ပွင့်တော်မူမည့် ဘုရားရှင်တို့သည်လည်း ထိုပါဠိဘာသာဖြင့်သာ တရားဓမ္မ ညွှန်ပြ ဟောကြားတော်မူမည် ဖြစ်ကုန်၏။

ပိဋကတ်သုံးပုံဖြင့် ရေတွက်အပ်သော ပရိယတ္တိဓမ္မကို သံဂါယနာ တင်တော်မူကြကုန်သော အရှင်မဟာကဿပ အစရှိကုန်သော အရှင်မြတ်တို့သည်လည်း ထိုပါဠိဘာသာဖြင့်သာ သံဂါယနာ တင်တော်မူကြကုန်၏။

ပါဠိဘာသာဟူသည် ကျယ်ဝန်းခမ်းနား၍ အလွန်သိမ်မွေ့သော ဘာသာကြီးတရပ် ဖြစ်သည်နှင့်အညီ ပုဒ်နေ ပါဌ်ထား ကံ ကတ္တား စသည် ပြောင်းလဲ တည်ဆောက်ရပုံ စသော နည်းနာနယတို့ကို ပြဆိုသော သဒ္ဒါကျမ်း စသော ကျမ်းပေါင်း မြောက်မြားစွာကို ရှေးပညာရှိကြီးများ ရေးသား ပြုစုထားတော်မူခဲ့ကြပေသည်။

ဤပါဠိဘာသာသည် မြန်မာနိုင်ငံသို့ အနော်ရထာမင်းစော လက်ထက် မတိုင်မီကပင် ရောက်နေသော်လည်း အရှင်အရဟံ၏ ကျေးဇူးကြောင့် အနော်ရထာ မင်းစောလက်ထက်ကျမှပင် ဖွံ့ဖြိုး တိုးတက်ခဲ့ပေသည်။ ထိုအခါမှစ၍ ဗုဒ္ဓဝါဒီ မြန်မာဘုရင်များသည် ပါဠိဘာသာကို လွန်စွာအားပေး မြှောက်စားတော် မူခဲ့ကြကုန်၏။

ထိုကြောင့်ပင် ပုဂံခေတ်က မြန်မာနိုင်ငံတွင် ပါဠိဘာသာ လွန်စွာ ထွန်းကားခဲ့လေသည်။ ထိုစဉ်က ပါဠိဘာသာကို လူတိုင်း လေ့လာကြသည်။ မိန်းကလေးများပင် ထမင်းချက်ရင်း ရေခပ်ရင်း ပါဠိဘာသာကို လေ့လာလိုက်စားကြကြောင်း အမှတ်အသားများ ရှိသည်။ ထိုစဉ်အခါက အချို့မိန်းမများသည်ပင် ပါဠိစာပေများကို သူတပါးအား ချပို့နိုင်ကြောင်း၊ ကျမ်းဂန်များ ရေးသားနိုင်ကြောင်းများလည်း မှတ်တမ်းရှိသည်။ ဝိဘတျတ္ထ မည်သော သဒ္ဒါငယ်ကျမ်းကား ကျစွာမင်းကြီး၏ သမီးတော်တပါး ရေးသားသော သဒ္ဒါငယ်ကျမ်း တစောင်ဖြစ်သည်။

ထိုပြင် ကျစွာမင်းကြီး သမီးတော် သံပျင် မင်းသမီး စာပေပို့ချသည်ကို ရဟန်းတော်များပင် လိုက်နာသင်ကြားကြကြောင်း၊ တပည့်ရဟန်းတပါး သံပျင်မင်းသမီးကို စုံမက်သဖြင့် မင်းကြီးထံ တောင်းဆိုသည်တွင် ကျမ်းတစောင်တဖွဲ့ ရေးသားနိုင်မှ သမီးတော်နှင့် စုံဖက်နိုင်မည်ဟု ဘုရင်ကြီး အမိန့်ရှိချက်အရ နျာသကျမ်း၏ အဖွင့်ဖြစ်သော ဋီကာကျမ်းကို ပါဠိဘာသာဖြင့် ရေးသားဆက်သွင်းလေရာ ဘုရင်ကြီး ကျေနပ် နှစ်သိမ့်တော်မူပြီးလျှင် သမီးတော်နှင့် ထိမ်းမြားတော်မူကြောင်း ရာဇဝင်တွင် အဆိုရှိသည်။

ယခုခေတ်တွင်ကား ပါဠိဘာသာကို ဘုန်းတော်ကြီးကျောင်းများနှင့် တက္ကသိုလ်ကျောင်းများတွင်သာ သင်ကြား လေ့လာလျက်ရှိတော့သည်။ ရှေးကလို အားသွန်ကိုးပမ်း လူတိုင်း မလေ့လာကြတော့ပေ။ အမှန်စင်စစ်မှာ ဗုဒ္ဓဝါဒီ ပုဂ္ဂိုလ်တိုင်း လေ့လာသင်ယူဖို့ သင့်ပေသည်။ အကြောင်းမှာ မြတ်စွာဘုရား ဆုံးမဟောပြတော်မူချက် မဂ်ဖိုလ်နိဗ္ဗာန်ရောက်ရန် လမ်းအသွယ်သွယ် ပိဋကတ်စာပေထဲမှာပင် ရှိပေသည်။ ပိဋကတ်စာပေဟူသည့် ပါဠိ

ဘာသာ၌ တည်ဆောက်ထားပေသည်။ မြန်မာဘာသာ ပြန်ပြီး ပိဋကတ်စာပေတွေ ရှိပါသော်လည်း ပါဠိဘာသာ ကို ကိုယ်တိုင်ကိုယ်ကျ တတ်သိနားလည်ပြီးသူ တယောက် ကိုယ်တိုင် လေ့လာသလောက် သဘောမပေါက်နိုင်ပေ။

ထို့ပြင် မြန်မာဘာသာ အတွင်းသို့လည်း သီလ သမာဓိ ပညာ စသော ပါဠိဝေါဟာရများကို တတ်နိုင်သရွေ့ ထည့်သွင်း သုံးနှုန်းစေသဖြင့် ယခုအချိန်အထိ ပါဠိသည် မြန်မာဘာသာဟုပင် အထင်မှားလောက်အောင် တွင်ကျယ်လျက် ရှိနေပေသည်။

မြန်မာဘာသာဖြင့် ရေးသား ပြုစုကြသည့် ကျမ်းစာများတွင် ထို ပါဠိဝေါဟာရတွေကိုပါ ထည့်သွင်းရေးသားထားလေ့ရှိကြသဖြင့် ပါဠိကို မကျွမ်းကျင်က မြန်မာဘာသာကို ထိရောက်စွာ တတ်မြောက်သည်ဟု ဝန်ခံရန် ခဲယဉ်းပေသည်။

ထို့ကြောင့် မြန်မာစာကို ကောင်းစွာ တတ်မြောက်ချင်လိုလားသူတိုင်း ပါဠိကိုပါ လေ့လာသင့်သည်ဟု ထင်မြင်သဘောရရှိပေသည်။ ဆရာဥာဏ်

**သက္ကရေး,ဝီလျံမိတ်ပိ**(ခရစ် ၁၈၁၁–၁၈၆၃)။ ။ဝီလျံမိတ်ပိ သက္ကရေးကား ဝိတိုရိယခေတ် အင်္ဂလိပ်စာပေလောကတွင် ထွန်းကားခဲ့သော ဝတ္ထုရေး ဆရာများအနက် အထင်အရှားဆုံး ဝတ္ထုရေး ဆရာကြီးတဦး ဖြစ်ပေသည်။ စာပေပညာရှင်တို့က သက္ကရေးကို ချားဒစ်ကင်းနှင့်နှိုင်းရှည့် ပြောဆိုလေ့ရှိကြ၏။ ဤသို့ ပြောဆိုခြင်းမှာလည်း နှစ်ဦးစလုံးပင် မျက်မှောက်ခေတ် လူနေမှုစံနစ်၏ အပြစ် အနာအဆာတို့ကို ထုတ်ဖော် ရေးသားတတ်သောကြောင့် ဖြစ်သည်။ (ဒစ်ကင်း,ချား — လည်းရှု။)

ဤသို့ မျက်မှောက်ခေတ် လူနေမှုစံနစ်ကို ဝေဖန်ရေးသားကြရာ၌ ချားဒစ်ကင်းသည် သက္ကရေးကဲ့သို့ မဟုတ်မူ၍ အဖိနှိပ်ခံ အောက်တန်းစား ဆင်းရဲသူဆင်းရဲသားတို့၏ ဘဝသနစ်ကို ကွက်ကွက်ကွင်းကွင်း ထင်မြင်လာအောင် ရေးချယ်ပြပြီးလျှင် ထိုသို့ဆင်းရဲနွမ်းပါးကြရခြင်း၏အကြောင်းရင်းကို ထုတ်ဖော်ဝေဖန် ရေးသားလေ့ရှိ၏။ သက္ကရေးကမူ ဤသို့ ဆင်းရဲသူဆင်းရဲသားများအား ဖိနှိပ်ချုပ်ချယ်နေကြသော အထက်တန်းစားတို့၏ ဂုဏ်ပကာသန ဝင့်ဝါ မောက်ကြွားမှုတို့ကို သရော်ရှုတ်ချကာ ရေးသားလေ့ရှိသည်။

သက္ကရေးကို ၁၈၁၁ ခုနှစ် ဇူလိုင်လ ၁၈ ရက်နေ့တွင် အိန္ဒိယနိုင်ငံ ကာလကတ္တားမြို့၌ ဖွားမြင်သည်။ သူ၏ ဖခင်မှာ အိန္ဒိယ နိုင်ငံဝန်ထမ်းအဖွဲ့ဝင်တဦးဖြစ်သည်။ သက္ကရေးသည် ခြောက်နှစ်သားအရွယ်တွင် အင်္ဂလန်နိုင်ငံသို့ သွားရောက်၍ ပညာသင်ကြားသည်။ သူသည် လန်ဒန်မြို့ရှိ ချာတာဟောက် စာသင်ကျောင်းတွင် နှစ်ပေါင်း အတော်ကြာ ပညာသင်ခဲ့ရာ ကျောင်းတွင် စာကိုလည်း ဂရုမစိုက်၊ ကစား ခုန်ကစားဖက်တွင်လည်း စိတ်မဝင်စားခဲ့ချေ။ သို့ရာတွင် သက္ကရေးသည် ထိုအချိန်ကတည်းကပင် ကဗျာလင်္ကာများကို စတင်စပ်ဆို ရေးသားစ ပြုခဲ့၏။

၁၈၂၉ ခုနှစ်တွင် သက္ကရေးသည် ကိမ်းဗရစ်တက္ကသိုလ် ထရင်နီတီကောလိပ်ကျောင်းသို့ ပြောင်းရွှေ့ပြီး ပညာသင်ကြားခဲ့စဉ် စာဖတ်ခြင်းဖြင့် အချိန်ကို ကုန်လွန်စေခဲ့သည်ကများသော်လည်း၊ လူမှု ပေါင်းသင်းဆက်ဆံရေး လုပ်ငန်းများကို အထူးသဖြင့် ဝါသနာပါ၍ လုပ်ကိုင်ခဲ့သည်။ ကိမ်းဗရစ်တက္ကသိုလ်တွင် တနှစ်မျှနေပြီးနောက် သက္ကရေးသည် ကျောင်းမှထွက်ပြီးလျှင် ဥရောပတိုက်ရှိ နေရာ အနှံ့အပြားသို့ သွားရောက် လည်ပတ်လေသည်။ နောက်ဥပဒေပညာကိုလည်း လအနည်းငယ်ခန့် ဆည်းပူးခဲ့သေး၏။ သို့သော်လည်း အသက် ၂၁ နှစ်အရွယ်သို့ရောက်သောအခါ ထိုဥပဒေပညာကို စွန့်လွှတ်လိုက်ပြီးလျှင် မိဖထံမှ အမွေရလိုက်သော အိုးအိမ်စည်းစိမ်ကို စီမံအုပ်ချုပ်ကာ နေထိုင်ခဲ့လေသည်။

၁၈၃၃ ခုနှစ်တွင် သက္ကရေးသည် 'နေရှင်နယ်စတင်းဒတ်' အမည်ရှိ သတင်းစာတစောင်ကို ဝယ်ယူထုတ်ဝေခဲ့ရာ မကြာမီပင် ထိုသတင်းစာကို ပိတ်လိုက်ရသည်။ ထိုနောက် ပြင်သစ် နိုင်ငံ ပါရစ်မြို့တွင် ပန်းချီပုံဆွဲအတတ်ကို လေ့လာသင်ကြားပြန်၏။ သို့သော်လည်း ပန်းချီဆရာ အလုပ်နှင့် ကြီးပွားနိုင်မည် မဟုတ်သည်ကို မကြာမီပင် သိမြင်လာသဖြင့် စာရေးခြင်း အလုပ်ဖြင့် အသက်မွေးမှုနေထိုင်ရန် လန်ဒန်မြို့သို့ ပြန်လာခဲ့လေသည်။

သက္ကရေးသည် ဖရေဇာ၊ ပန့်ချ စသော မဂ္ဂဇင်းများသို့ ရယ်ရွှင်ဖွယ် ပုံပြင်ဝတ္ထုများ၊ ဆောင်းပါးများကို ကလောင်အမည် အမျိုးမျိုးဖြင့် ရေးသားပေးပို့ခဲ့၏။ စာရေးစကသက္ကရေးသည် စာအဆင့်အတန်း မြင့်ရေးထက် ငွေကြေးရရှိရေးကိုသာ အဓိကထားခဲ့လေသည်။

သက္ကရေးသည် ပြင်သစ်နိုင်ငံတွင်နေထိုင်ခဲ့စဉ် ၁၈၃၆ ခုနှစ်က အဇ္ဇဗဲလား ရှော အမည်ရှိသော ပြင်သစ်အမျိုးသမီးတဦးနှင့် လက်ထပ်ခဲ့ရာ သမီးသုံးယောက်ရရှိခဲ့၏။ သို့ရာတွင် ဒုတိယ သမီးမှာ အရွယ်မရောက်မီပင် သေဆုံးခဲ့လေသည်။ ထိုအချိန်မှစ၍ သက္ကရေး၏ ဇနီးသည်လည်း စိတ္တဇ ရောဂါဖိစီး နှိပ်စက်ခြင်း ခံရရာ တတိယသမီးကို မွေးဖွားပြီးသည့်နောက်တွင် စိတ်မှာ ပိုမို ဖောက်ပြန်လာသဖြင့် စိတ္တဇဆေးရုံသို့ ပို့ထားလိုက်ရလေသည်။

ဇနီးသည် မကျန်းမာနေစဉ်အတွင်း၌ပင် သက္ကရေး၏ လက်ရာများကို လူကြိုက်များလာသဖြင့် သက္ကရေးမှာ ဟာသ စာရေးဆရာအဖြစ် ကျော်ကြားလာသည်။ ၁၈၄၆ ခုနှစ်တွင် သက္ကရေးသည်'ဗင်နတီဖဲယား'ခေါ် ဝတ္ထုရှည်ကြီး



ဗြိတိသျှ ဝတ္ထုရေးဆရာ ဝီလျံ မိတ်ပီ သက္ကရေး

ကို ဆက်ရေးသားလိုက်ရာ လူကြိုက်များလှသဖြင့် သက္ကရေး သည် ထင်ရှားသော ဝတ္ထုရေးဆရာကြီး ဖြစ်လာသည်။

၁၈၅၀ ပြည့်နှစ်တွင် သက္ကရေးသည်'ပင်းဒင်းနစ်'အမည် ရှိ ဝတ္ထုကို ရေးသားထုတ်ဝေပြန်သည်။ ထိုဝတ္ထုတွင် သက္က ရေး၏ ဘဝအကြောင်း အဖြစ်အပျက် အမှန်များ ပါဝင် သည်ဟု အဆိုရှိလေသည်။ နောက်နှစ်နှစ် အကြာတွင်'ဟင် နရီ အက်စမွန်'ရာဇဝင်ဝတ္ထုကို ရေးသားထုတ်ဝေသည်။ ထို ဝတ္ထုမှာ ဂျိမ်း စတူးဝပ် ဘုရင်ကြီး လက်ထက်က အင်္ဂလန် ပြည်၏ အခြေအနေကို နောက်ခံပြုကာ ရေးသားထားသော ရာဇဝင် ဝတ္ထုကြီးဖြစ်၍ အင်္ဂလိပ်စာပေသမိုင်း၌ ထွက်ပေါ် ခဲ့သမျှသော ရာဇဝင်ဝတ္ထုများထဲတွင် အကောင်းဆုံး ဝတ္ထု ကြီးဖြစ်ကြောင်း စာပေပညာရှင်များက သဘောရကြလေ သည်။ ထိုဝတ္ထုကြီးကို ထုတ်ဝေသည့်နှစ်မှာပင် သက္ကရေး သည် အမေရိကန်ပြည်ထောင်စုသို့ သွားရောက်ကာ နေရာ အနှံ့အပြားတွင် ဟောပြောပွဲများကို ကျင်းပခဲ့လေသည်။ ဤသို့ လှည့်လည်၍ ဟောပြောခြင်းဖြင့် ဝင်ငွေ အလွန် ကောင်းရကား သက္ကရေးသည် ၁၈၅၅ ခုနှစ်တွင် နောက်ထပ် တကြိမ် သွားရောက်ပြန်လေသည်။ ထိုသို့ ခရီးသွားနေ သည့် အချိန်အတောအတွင်း အားလပ်ချိန်များဘွင်လည်း 'နယူးကမ်း'အမည်ရှိ ဝတ္ထုစာအုပ်ကို ရေးသားခဲ့သည်။ ထို ဝတ္ထုတွင် သက္ကရေးသည် ချာတာဟောက် စာသင်ကျောင်း တွင် နေခဲ့စဉ် ကလေးဘဝက အဖြစ်အပျက်များကို နောက် ခံပြုကာ ရေးသားထားလေသည်။ သက္ကရေးသည် စာရေး ခြင်းနှင့် ဟောပြောခြင်းကို ပင်ပန်းသော အလုပ်ဟု ယူဆ သူဖြစ်သဖြင့် ယင်းလုပ်ငန်း နှစ်ခုစလုံး၌ မပျော်ပိုက်ချေ။ အစိုးရအမှုထမ်း၊ သို့မဟုတ် သံအဖွဲ့ဝင် ရာထူးဖြစ်ပါက သူ့ တသက်တွင် ငွေရေး ကြေးရေးအတွက် စိတ်ပူစရာ မလိုဟု ယူဆသည့်အတိုင်း ယင်းရာထူးတခုခုကို ရရှိရန် သက္ကရေး သည် အမြဲမျှော်မှန်းခဲ့သူ ဖြစ်သည်။ ထို့ပြင် သက္ကရေးသည် အမြဲ ကျန်းမာလှသူလည်း မဟုတ်ချေ။

၁၈၅၇ ခုနှစ်တွင်'ဟင်နရီ အက်စမွန်'ဝတ္ထုကြီး၏နောက် ဆက်တွဲ ဖြစ်သည့် 'ဗာဂျင်းနီးယန်း' ဝတ္ထုကြီးကို ရေးသား သည်။ အမေရိကန် ပြည်ထောင်စု၌ ခရီးလှည့်လည် သွား လာခဲ့သည်ကို အခြေခံ၍ ရေးသားထားခြင်းဖြစ်သည်။ ထို နောက် ကွန်ဟေး မဂ္ဂဇင်းတွင် မကွယ်လွန်မီ နှစ်အနည်းငယ် ခန့် အယ်ဒီတာအဖြစ် ဝင်ရောက်လုပ်ကိုင်သေးသည်။ ၁၈၆၂ ခုနှစ်တွင် အယ်ဒီတာ အလုပ်မှ နုတ်ထွက်လိုက်ပြီးလျှင် 'ဒင်းနစ်ဒူးဗယ်'အမည်ရှိ ဝတ္ထုကို ရေးသားလေသည်။ ထို ဝတ္ထုမှာ သက္ကရေး၏ နောက်ဆုံး ဝတ္ထုဖြစ်၍ ပြီးဆုံးအောင် ရေးမသွားနိုင်ခဲ့ချေ။ ၁၈၆၃ ခုနှစ် ဒီဇင်ဘာလ ၂၄ ရက်နေ့ တွင် သက္ကရေး ကွယ်လွန်ရာ သူ့အလောင်းကို ကင် ဆယ်ဂရင်းအရပ်တွင် မြှုပ်နှံသင်္ဂြိုဟ်လေသည်။

**သက္ကရာဇ်။** ။သာက မင်းဆက် (အိန္ဒိယမင်းဆက်)ကို အကြောင်းပြု၍ သက္ကရာဇ် ခေါ်၏။ အချို့ ဆရာတို့ကမူ 'သက္ကာရိယတေတိသက္ကာရိတော'ဟု နှစ်အရေအတွက်ကို အရိုအသေပြု၍ မှတ်ခြင်း၊ တနည်း'သက္ကရာဇ်ဒွိတ်ကတွာ' ပြု၍ သိကြားဟော ယူသည်။ 'သက္ကရာဇ်တ'ကို 'သက္ကရာ ဇန'ဟု ပုဒ်ပြု၍လည်း သိကြားဟော မယူ၊ တတ်စွမ်းနိုင် သော ပညာရှိ အစီအရင်ယူသည်။ ဤသို့ ကနီအတွင်းဝန် ရေး မကာရန္တ ဗေဒင်လက်ရိုးဋီကာတွင် ဆိုလေသည်။

အိန္ဒိယနိုင်ငံသမိုင်းအရ 'သာကခေတ်' နှစ်မျိုး ရှိ၏။ သာကခေတ်ဟောင်းသည် ခရစ်မပေါ်မီ ၁၂၃ ခုနှစ် (ဘီစီ ၁၂၃ ခုနှစ်)မှစ၍ သာကခေတ်သစ်သည် ခရစ်ဖွားပြီး ၇၈ ခုနှစ် (အေဒီ ၇၈ ခုနှစ်)မှစ၍ ယူသည်။ ထို့ကြောင့် သက္က ရာဇ်သည် မြတ်စွာဘုရား ပရိနိဗ္ဗာန်ပြုပြီးနောက် ၄၂၁ ခုနှစ် မှ ဖြစ်ပေါ်လာခဲ့သည်။ ထိုသက္ကရာဇ်မတိုင်မီတွင်'ကလိယုဂ် နှစ်'၊ 'သာသနာနှစ်'စသည်တို့ ဖြစ်ချေသည်။

သူရိယသိဒ္ဓန္တကျမ်း၏ နှစ်များမှာ စတုယုဂ်တခုတွင် နှစ် ပေါင်း ၄,၃၂၀,၀၀၀ ရှိ၍ ယုဂ်လေးပါး ပိုင်းခြားထား၏။ (၁) ကတယုဂ်–နှစ် ၁,၇၂၈,၀၀၀ (၂) တြေတာယုဂ်–နှစ် ၁,၂၉၆,၀၀၀ (၃) ဒွါပရယုဂ်–နှစ် ၈၆၄,၀၀၀ (၄) ကလိ ယုဂ်–နှစ် ၄၃၂,၀၀၀ ဟုဆို၏။

ယခုမြန်မာနိုင်ငံ၌ အသုံးပြုသော သက္ကရာဇ်သည် ကလိ ယုဂ်နှစ်များမှ မင်းအဆက်ဆက် သက္ကရာဇ်ဖြို့ခဲ့သော နှစ်

ဖြစ်၏။ မြတ်စွာဘုရား ဘိုးတော် အဥ္စနမင်းသည် ဒွါပရ ယုဂ်မှ နှစ်ကျန် ၆,၂၁၆ နှင့် ကလိယုဂ်ဆန်းနှစ် ၂,၄၀၉ ပေါင်း၍ ၈,၆၂၅ နှစ်ကို ဖြိုတော်မူသည်။ ထိုသို့ဖြိုပြီးနောက် မဟာသက္ကရာဇ် ၆၈ ခုနှစ်တွင် မြတ်စွာဘုရားအလောင်းကို ဖွားမြင်တော်မူ၍ သက်တော် ၈၀၊ ဝါတော် ၄၅၊ မဟာ သက္ကရာဇ် ၁၄၈ ခုနှစ်တွင် ဘုရားသခင် ပရိနိဗ္ဗာန် ပြုတော်မူသည်။ ယင်းသည်နောက် အရှင်မဟာကဿပ အမှူးပြု၍ ပဌမသင်္ဂါယနာတင်ပြီးလျှင် အဇာတသတ်မင်းသည် မဟာ သက္ကရာဇ် ၁၄၈ ခုနှစ်ကိုဖြိုတော်မူ၍ သာသနာသက္ကရာဇ် ပြုတော်မူသည်။ ဤသက္ကရာဇ်ဖြိုခြင်းသည် ကိန်းခန်းများ ညီညွတ်ရန် မဟုတ်၊ သာသနာ သက္ကရာဇ်ပြုရန်အတွက် ဖြိုခြင်း ဖြစ်သည်။

ထိုနောက် သရေခေတ္တရာမင်းဆက် ၂၅ ဆက်မြောက် သမုန္ဒရီမင်း လက်ထက်တော်၌ နက္ခတ်ကိန်းခန်း ကျသဖြင့် ဒေါ ဒေါရသ၊ သာသနာ သက္ကရာဇ် ၆၂၂ ကို ဖြိုခဲ့၏။ ဤ ဖြိုနှစ်နှင့်တပြိုင်တည်း အိန္ဒိယနိုင်ငံ၌လည်း မယုရမင်း လက်ထက်တွင် နက္ခတ်ကိန်းခန်းအရ သက္ကရာဇ်ဖြို၍ 'သာကနှစ်' အစပြုခဲ့၏။

ထိုနောက် ပုဂံပြည် ပုပ္ပား စောရဟန်းမင်း လက်ထက်တွင် ခဆပဥ္စ၊ သက္ကရာဇ် ၅၆၀ ကို ဖြိုခဲ့သည်။ ထိုနောက် သက္ကရာဇ် ၈၀၀ ပြည့်နှစ်ရောက်သောအခါ ရတနာပုရ အင်းဝ ပြည်တွင် မိုးညှင်း မင်းတရား လက်ထက်၌ သက္ကရာဇ် နှစ်ခု အကြွင်းထားပြီးလျှင် အဋ္ဌနဝသတ္တ၊ သက္ကရာဇ် ၇၉၈ ကိုဖြိုခဲ့ရာတွင် မအောင်မြင်ချေ။ သက္ကရာဇ်ဟောင်း အခေါ် မပျောက်။ မြန်မာတနိုင်ငံလုံး ပုဂံခေတ် သက္ကရာဇ်ကိုသာ ဆက်လက်၍ အသိအမှတ်ပြုခဲ့သည်မှာ ယနေ့တိုင်ပင်ဖြစ်၏။ ဤအခါမှစ၍ သက္ကရာဇ်ရှည်၊ သက္ကရာဇ်တိုဟု သက္ကရာဇ်နှစ်ရပ် ဖြစ်ခဲ့သေး၏။

ယခုကောဇာသက္ကရာဇ်တွင် ၅၆၀ နှစ် နှောလျှင် သမုန္ဒရီ ခေတ် သက္ကရာဇ်ရ၏။ ယင်းကို ၆၂၂ နှစ်နှောလျှင် မြတ်စွာ ဘုရား ပရိနိဗ္ဗာန် ပြုပြီးသည့်နောက် သာသနာနှစ်ဖြစ်၏။ ယင်းတွင် ၂,၅၅၇ နှစ်နှောလျှင် ကလိယုဂ်နှစ်ပေါင်းဖြစ်၏။

ပုံပမာ (၁) သက္ကရာဇ် ၁၃၂၄+၅၆၀=၁၈၈၄–သမုန္ဒရီ သက္ကရာဇ်၊အိန္ဒိယနိုင်ငံသုံး ပြက္ခဒိန်၏'သာကနှစ်'၊

(၂) သက္ကရာဇ် ၁၈၈၄ +၆၂၂ =၂၅၀၆–သာသနာနှစ်၊ (သီဟိုဠ်လူမျိုးတို့သည် သာသနာ သက္ကရာဇ်ကို အသုံးပြုကြသည်။)

(၃) သာသနာနှစ် ၂၅၀၆+၂၅၅၇=၅၀၆၃ ကလိယုဂ်နှစ်၊ (သူရိယ သိဒ္ဓန္တ ကျမ်းမှ နက္ခတ် တွက်ကိန်းများ တွက်လျှင် ကလိယုဂ်နှစ်များကို အသုံးပြုကြသည်။)

တနည်းကား(၁)ကောဇာ သက္ကရာဇ်တွင် ၁၁၈၂ နှောလျှင် သာသနာနှစ်ဖြစ်၏။

(၂) ကောဇာ သက္ကရာဇ်တွင် ၃၇၃၉ နှောလျှင် ကလိယုဂ်နှစ်ပေါင်းဖြစ်၏။

သက္ကရာဇ်ဖြိုခြင်း အကြောင်းကား သက္ကရာဇ်အများထက် အနည်းကို အလွယ်မှတ်သားစေရန်၊ ဝေါဟာရ ပက္ခဒိန်တွင် တိထိနက္ခတ်ပုဏ္ဏမိ စသည်များ သာမန် လထပ်ရက်ငင် ပြုသော်လည်း မညီညွတ်ခြင်း၊ နေကြတ်လကြတ် ဂြိုဟ်သွားတို့ တိမ်းစောင်းခြင်းစသော လက္ခဏာများပေါ်ပေါက်လျှင် တွက်ပုံကိန်းခန်းများ ညီညွတ်စေရန်နှင့် ဝေါဟာရ ပက္ခဒိန် စင်ကြယ်မှုရှိစေရန် အုပ်ချုပ်သော မင်းများသည် နက္ခတ်ပညာရှိများနှင့် တိုင်ပင်နှီးနှောလျက် သက္ကရာဇ်များ ဖြိုသင့်က ဖြို၍ ကိန်းများ ညှိနှိုင်းပြုပြင်ရသည်။ ထိုပြင် တိုင်းပြည်အုပ်ချုပ်သော မင်းများ မိမိတို့၏ ခေတ်ကို ရာဇဝင်တွင် အထင်အရှားရှိစေရန် သက္ကရာဇ်ကိုဖြို၍ မိမိတို့အုပ်ချုပ်သောနှစ်မှ ခေတ်သစ်သက္ကရာဇ်များ ပြုကြသည်။

ဗေဒင်တွက်ရိုးကို စီရင်သော ကျမ်းများ၌ သက္ကရာဇ် အများကို အနည်းဖြင့် စီရင်ကြသည်မှာ သက္ကရာဇ်ဖြိုခြင်း မမည်။ ကျမ်းပြုနှစ်သာ မည်၏။ ပုံပမာ–သံဒိဋ္ဌကျမ်း၌ ကောဇာ သက္ကရာဇ်ကို တည်၍ ၃၇၃၉ ခု နှောလျှင် ကလိယုဂ်ဆန်းနှစ်ဖြစ်၏။ ယင်းတွင် ၄၈၃၉ ချေ၊ သေသနှစ် ကြွင်း 'ရဿ'ဖြစ်၏။ ဤရဿနှစ်သည် သက္ကရာဇ် ဖြိုနှစ် မဟုတ်ချေ။ အတာဗိုလ် တွက်ခြေလွယ်ကူစေရန် ချုံးထားသော ကိန်းဂဏန်းများသာ ဖြစ်၏။

သူရိယသိဒ္ဓန္တကျမ်း ဂြိုဟ်စဉ်များ တွက်ရေး၌ ကလိယုဂ်နှစ်ဖြင့် အခြေပြုသကဲ့သို့ အနောက်နိုင်ငံ ဂြိုဟ်စဉ်တွက် ကိန်းများ၌လည်း ဂျူလီယန်နှစ်များရှိ၏။ ယင်းနှစ်သည် ခရစ်မပေါ်မီ ၄၇၁၃ ခုနှစ်(ဘီစီ ၄၇၁၃)မှ စတင်ရေတွက်ခဲ့၏။ ခရစ်နှစ် ၁၉၆၂ ခုနှစ် (အေဒီ ၁၉၆၂)သည် ဂျူလီယန် နှစ် ၆၆၇၅ နှစ်ဖြစ်၏။

မြန်မာလူမျိုးတို့၏ သက္ကရာဇ် ဖြိုနှစ်များ

| မင်းအမည် | ဖြိုနှစ်ပေါင်း | ကလိယုဂ်နှစ် | ခရစ်နှစ် | |
|---|---|---|---|---|
| | | ၀ | ဘီစီ | ၃၁၀၁ |
| ဘိုးတော်အဥ္စနမင်း | ၂၄၀၉ | ၂၄၀၉ | ဘီစီ | ၆၉၂ |
| အဇာတသတ်မင်း | ၁၄၈ | ၂၅၅၇ | ဘီစီ | ၅၄၄ |
| သမုန္ဒရီမင်း | ၆၂၂ | ၃၁၇၉ | အေဒီ | ၇၈ |
| စောရဟန်း | ၅၆၀ | ၃၇၃၉ | အေဒီ | ၆၃၈ |
| မိုးညှင်း မင်းတရား | ၇၉၈ | ၄၅၃၇ | အေဒီ | ၁၄၃၆ |

**မှတ်ချက်။ ။မိုးညှင်းမင်းတရားကြီး လက်ထက်၌ သက္ကရာဇ် ဖြိုခြင်း မအောင်မြင်သဖြင့် ပုဂံခေတ် စောရဟန်း သက္ကရာဇ်**

ကိုပင်ဆက်၍အသုံးပြုခဲ့၏။ ဘိုးတော်အဥ္စနနှင့်အဇာတသတ်မင်းတို့သည် မြန်မာမင်းဆက်မဟုတ်သော်လည်းသာသနာ့ပြုမင်းများ ဖြစ်၍ သာသနာတော်နှစ်များနှင့် တဆက်တည်း ထည့်သွင်းကာ သက္ကရာဇ်များ ဖို့ခဲ့သည်။ ဦးအုန်းကြိုင်

**သက်ကယ်လှေ။** ။ပင်လယ်ကူး သင်္ဘောကြီးများမှအစ တံငါလုပ်ငန်းဖြင့် ပင်လယ်ပြင်၌ သွားလာနေကြသော လှေသင်္ဘောများ၏ ဘေးအန္တရာယ်သည် ကြောက်မက်ဖွယ်ကောင်းအောင် ထူပြောလှပေသည်။ ကျောက်ဆောင်များနှင့် တိုက်မိ၍ ပျက်စီးနစ်မြုပ်ရခြင်း၊ လေပြင်းမုန်တိုင်း မိသဖြင့် တိမ်းမှောက် နစ်မြုပ်ရခြင်း၊ ရေကြောင်း မှားသဖြင့် သောင်တင်လျက် တိမ်းစောင်းပျက်စီးရခြင်း စသည့် အန္တရာယ်များဖြင့် တွေ့ကြုံသောအခါ ထိုသင်္ဘောများပေါ်၌ စီးနင်းလိုက်ပါလာကြသူတို့၏ ကံကြမ္မာသည်လည်း ဘေးတွေ့သော သင်္ဘောနှင့်အတူပင် ဖြစ်တော့၏။

ရေ၌ ကျက်စားသူများတွင် ဘေးအန္တရာယ် အများဆုံးဖြစ်သော တံငါသည်များသည် လှေရော လူပါ ဆုံးရှုံးခဲ့ရသည်မှာ များပြားလှလေပြီ။ ထိုသို့ ရှေးက အနောက်နိုင်ငံများတွင် တံငါသင်္ဘောများ တခေါက်ထွက်၍ အပြန်တွင် တစင်းနှစ်စင်း နစ်မြုပ်လေ့ရှိရကား တံငါသင်္ဘောများ အပြန်တွင် ကြိုဆိုကြသော အိမ်သူအိမ်သားများသည် ခပ်လှမ်းလှမ်းမှ လာနေသော သင်္ဘောရွက်တိုင်များကို ရင်တဖိုဖိုနှင့် ရေတွက်နေကြရလေသည်။ ထွက်သွားစဉ်ကဆယ်စင်းဖြစ်၍ အပြန်တွင် ရွက်တိုင်ဆယ်တိုင်အောက် လျော့နေပါက ကြိုဆိုသူအားလုံးမှာ ကြားရလတ္တံ့သောမကောင်းသတင်းအတွက် ကိုယ်စီ ကိုယ်ငှ စိုးရိမ်ကြီးစွာ ဖြစ်ကြရလေတော့သည်။

ထိုကဲ့သို့သော ဘေးအန္တရာယ်နှင့် ကြုံ၍ ကယ်ဆယ်သူမရှိသော အဖြစ်မျိုးကား များစွာ စိတ်နှလုံး မချမ်းမြေ့ဖွယ်ရာ ဖြစ်ပေသည်။ ထိုသို့ မချမ်းမြေ့ဖွယ် အသက်ဆုံးရှုံးမှုများမှ ကာကွယ်ရန်၊ သို့မဟုတ် ကယ်ဆယ်ရန် နည်းလမ်းကောင်းများကို ရှာဖွေခဲ့ကြရာ ခရစ် ၁၇၇၅ ခုနှစ်က လူကင်ဆိုသူ ပုဂ္ဂိုလ်တဦးသည် လှေတစင်းကို တီထွင်ဆောက်လုပ်ခဲ့ဘူး၏။ ထိုနောက်တွင် ၁၇၇၉ ခုနှစ်၌ နျူကပ်ဆဲကမ်းခြေ တိုင်းမြစ်ဝမှ ကိုက် ၃၀၀ မျှသာ ကွာဝေးသော နေရာတွင် 'အက်ဒဗင်ချာ'ခေါ် သင်္ဘောကြီး တစင်းသည် လေမုန်တိုင်းမိ၍ လှိုင်းကြီးများအကြားတွင် ဒုက္ခတွေ့ ပျက်စီးရပုံကို ကမ်းပေါ်မှ လူအများ မြင်ကြရလေသည်။ ထိုသင်္ဘောကြီး ပျက်စီးနစ်မြုပ်လျက် ရှိနေစဉ် တတ်နိုင်သမျှကယ်ဆယ်ရန် အဆောတလျင် တိုင်ပင်ခဲ့ကြသော်လည်း ထိုမျှ လှိုင်းလုံးကြီးများ သောင်းကျန်းနေသည့် နေရာသို့ သွားရောက် ကယ်ဆယ်ဝံ့သူ မပေါ်ပေါက်ခဲ့ချေ။ ထိုကြောင့် သင်္ဘောကြီး နစ်မြုပ်ပျက်စီးသွားသည်ကို မျက်မြင် ဖြစ်သော်လည်း စိတ်မချမ်းမြေ့ ဖြစ်ရုံမှတပါး မည်သို့မှ ကယ်



ပင်လယ်တွင်း ဒုက္ခရောက်နေသူများကို ကယ်ဆယ်ရန် သက်ကယ်လှေတစင်း ကင်းလှည့်နေစဉ်

ဆယ်ရန် မတတ်နိုင်ခဲ့ကြပေ။ ထိုသို့ဖြစ်ရသည်ကို မချင့်မရဲ ရှိလာသဖြင့် ကယ်ဆယ်ရန် နည်းလမ်းများကို ကြံစည် စိတ်ကူးခဲ့ကြရာ ဝီလျံ ဝုဒဟော့ဆိုသူ ဆေးသုတ်သမားတဦးနှင့် ဟင်နရီ ဂရိတ်ဟက်ဆိုသူ လှေစပ်သမားတဦးက သက်ကယ်လှေပုံစံတမျိုးကို တင်ပြခဲ့ကြ၏။ ထိုပုံစံကို သက်ဆိုင်ရာတို့က နှစ်သက်ကြသဖြင့် လက်ခံလိုက်ကြသည်။ ယခုခေတ် ဆောက်လုပ် အသုံးပြုနေသော သက်ကယ်လှေများသည်လည်း ဝုဒဟော့ တီထွင်ခဲ့သော အခြေခံ သဘောပေါ်တွင်ပင် မူတည်ဆောက်လုပ်ထားလေသည်။

ရှေးဦးစွာ တီထွင်သော သက်ကယ်လှေများမှာ အောင်မြင်သင့်သလောက် အောင်မြင်ခဲ့သော်လည်း ဝေးလံသော ခရီးနှင့် ပြင်းထန်သော မုန်တိုင်းများ အကြားတွင် သွားရောက် ကယ်ဆယ်ရန် မဖြစ်နိုင်ချေ။ များသောအားဖြင့် ကမ်းခြေနှင့် မနီးမဝေး အရပ်များတွင် ဒုက္ခတွေ့သော လှေသင်္ဘောများကိုသာ ကယ်ဆယ်နိုင်ခဲ့၏။ သို့သော်သက်ကယ်လှေများ၏ အသုံးဝင်ပုံကို သိရှိလာကြသည် အလျောက် တနေ့ တခြား တိုးတက်ကောင်းမွန်အောင် တီထွင်ပြုလုပ်လာကြရာ စက်ဖြင့် ခုတ်မောင်းသော သက်ကယ်လှေများလည်း ပေါ်ပေါက်လာလေသည်။ လှေဝမ်းထဲသို့ ရေမဝင်နိုင်စေရန် ဝမ်းကို ရေလုံအောင် ပြုလုပ်ထားပြီးလျှင် ၂၆ ပေမှ ၃၆ ပေအထိ ရှည်၍ ပေါ့ပါးသော လှေများကို တည်ဆောက်ကြ၏။ ထိုလှေများသည် လူ ၃၀ မှ ၁၀၀ အထိ တင်နိုင်သည်။

ပင်လယ်ကူး သင်္ဘောတိုင်းတွင် သက်ကယ်လှေများနှင့် သက်ကယ်ဗောများကို လိုအပ်သလို တင်ဆောင်ထားရှိကြရသည်။ သက်ကယ်လှေများကို နိုင်ငံကြီးများတွင် ပင်လယ်ကမ်းခြေများ၌ အချိန်မရွေး အဆင်သင့် ထားကြသည်။ ယခုခေတ်သစ် နည်းစံနစ်များအရ တိုးတက်နေသော သက်ကယ်လှေများမှာ စက်ဖြင့် ခုတ်မောင်းသော လှေများသာ ဖြစ်၍ အသက်ကယ်ဆယ်ရာ၌ လိုအပ်သော ကရိယာ တန်ဆာ အသုံးအဆောင်များ အသင့် တပ်ဆင်ထားသည်။ ကယ်ဆယ်ရာ၌ အသုံးပြုသည့် ကြိုးများ၊ အသံဖမ်းစက်၊ အားကောင်းသော လျှပ်စစ်မီးမောင်းများ၊ ရေမျက်နှာပြင်ကို ငြိမ်သက်စေရန် ပက်ဖျန်းသည့် ဆီဖျန်းပိုက်များ စသည်များကို သက်ကယ်လှေများ၌ အသင့်တပ်ဆင်ထားရှိသည်။ အရေးကြုံ၍ ထိုလှေများကို အသုံးပြုရန် လိုသောအခါ ကယ်ဆယ်ရေး အပျော်ထမ်း တပ်ဖွဲ့သားများက ဆောင်ရွက်ကြသည်။ သက်ကယ်လှေကို အသုံးပြု၍ ရေထဲတွင် ကယ်ဆယ်ရေး လုပ်ငန်းကို လုပ်ကိုင်ရာ၌ စွန့်စားရသည့်အရာတွင် မီးသတ်သမားများထက် ဘေးအန္တရာယ် မသေးချေ။

ကမ်းခြေစောင့် ကယ်ဆယ်ရေး သမားများသည် ပင်လယ်ဖက်သို့ အမြဲစောင့်ကြည့်နေကြရသည်။ ဒုက္ခနှင့် တွေ့ကြုံနေရသော သင်္ဘောများသည် ကမ်းခြေစောင့်များထံမှ အကူအညီကို ရရှိနိုင်ရန် ကောင်းကင်သို့ မီးကျည် မီးပန်းများ လွှတ်၍ အချက်ပေးရသည်။ ဒုက္ခသည်များထံမှ အချက်ပြ မီးပန်းများကို မြင်လျှင် အကူအညီ လာမည့်အကြောင်း ပြန်၍ အချက်ပြကာ သက်ကယ်လှေများနှင့် ချက်ခြင်း ထွက်ခွာသွားကြလေသည်။

အမေရိကန် ပြည်ထောင်စု ကမ်းခြေစောင့်များသည် သက်ကယ်လှေများဖြင့် ကယ်ဆယ်ရေးကိုသာမက၊သင်္ဘောများ နစ်မြုပ်ပျက်စီးခြင်းများမှ ကာကွယ်ရန်လည်း စီမံထားကြသည်။ ကမ်းခြေစောင့်ဌာနတွင် ထားရှိသော လေယာဉ်ပျံသည် ပင်လယ်ရေပြင်ပေါ်ရှိ ရာသီဥတု အခြေအနေကို ပျံသန်းကြည့်ရှုနေရသည်။ လေမုန်တိုင်း ပြင်းထန်မည့် အရိပ်နိမိတ်မြင်လျှင် တံငါသင်္ဘော အစရှိသည်တို့ကို သတိပေးရသည်။ ကုစားခြင်းထက် ကာကွယ်ခြင်းက ပိုမိုကောင်းမွန်သည် ဟူသော စကားပုံအရ ထိုသို့ ကြိုတင် ကာကွယ်ခြင်းမှာ နစ်မြုပ်မှ ကယ်ဆယ်ရခြင်းထက် ပိုမို ခရီးရောက်သည့်အလျောက် ယခုအခါ နိုင်ငံအများမှာပင် ထိုသို့ ရာသီဥတု အခြေအနေကို အကဲခတ်၍ သတိပေးနှိုးဆော်မှုများ ပြုလုပ်လျက် ရှိကြလေသည်။



**သက်ငယ်။** ။အရေးအသားအားဖြင့် 'သက်ငယ်' ဟု ရေးသား သုံးနှုန်းသော်လည်း အခေါ်အဝေါ်အားဖြင့် 'သက်ကယ်'ဟု ခေါ်ဝေါ်ကြသည်။ 'ရှေးရှေးတုန်းက၊ ရွှေယုံနဲ့ ရွှေကျား သက်ကယ်ရိတ် သွားသတဲ့' အစချီသော ဒဏ္ဍာရီပုံပြင်ကို မြန်မာကလေးသူငယ်တိုင်းလိုပင် ကြားဘူးကြပေသည်။ သက်ကယ်ရိတ် သွားသည် ဟူသည်နှင့် အညီ သက်ကယ်(သက်ငယ်)သည် ရိတ်ဖြတ်ရသော အပင်မျိုးဟု သိကြရသည်။ ရိတ်ဖြတ်ရသော အပင်မျိုးဟု သိရသဖြင့် စပါးပင်၊ ဂျုံပင်၊ မြက်ပင်တို့ကဲ့သို့ ရှိမည်ဟု တဆင့်မှန်းဆနိုင်ကြပေဗည်။

သက်ငယ်သည် စပါးပင်၊ ဂျုံပင်တို့ကဲ့သို့ မြက်တမျိုးဖြစ်ရာ ဂရင်မီနေစီအီး မျိုးရင်းတွင် ပါဝင်၍ မျိုးစိတ်၏ အမည်မှာ အင်ပါရေတာ အရွန်ဒီနေစီးဖြစ်လေသည်။ နေရာဒေသ အနှံ့အပြား၌ ပေါက်ရောက်တတ်သော်လည်း အထူးသဖြင့် စိုစွတ်သော ဒေသများတွင် ပိုမို ပေါက်ရောက်လေသည်။ နှစ်ကြာခံ မြက်ပင်မျိုးဖြစ်၍ အပေါ်သို့ ထောင်လျက် တည့်မတ်စွာ ပေါက်ရောက်သည်။ မြေလျှောက် အမြစ်မျိုးရှိရာ အဆစ်များတွင် အမြစ်ပွားများ ရှိသည်လည်းရှိသည်။ မရှိသည်လည်း ရှိသည်။ ပင်စည်သည် တပေမှ သုံးပေခန့်အထိ ရှိ၍ အရွက်များသည် ခြောက်လက်မမှ ၁၈ လက်မအထိ ရှည်ပြီးလျှင် ½ လက်မမှ တလက်မခန့်သာပြက်ကျယ်သည်။ ရှည်မျောမျောရှိသော ထိုအရွက်များ၏ ထိပ်သည် ချွန်၍

အရွက်၏ အပေါ်ဖက်သည် ချောမွတ်သော်လည်း အရွက်အောက်ဖက်နှင့် အရွက် အနားတို့သည် ကြမ်းပြီးလျှင် ရှတတ နေသည်။ အကိုင်းအခက်များသည် တို၍ ပင်စည်နှင့် ပူးကပ်နေပြီးလျှင် ကျပ်ကျပ် ညပ်ညပ် ထွက်ကြလေသည်။ အပွင့်ပွင့်သည်။ ပွင့်ခိုင်သည် ဖျော့တော့တော့ ငွေရောင်မျိုးရှိ၍ ဂျုံ စပါးနှံကဲ့သို့ ရှည်ရှည်လုံးလုံးနှင့် အဖျားချွန်သော(စပိုက်)ပွင့်ညှာမဲ့ ပွင့်ခိုင်မျိုးဖြစ်သည်။အနံ့တက်ကို ခြံရံလျက် ဝ.၁၂၅ လက်မရှည်၍ လုံ့စွပ်ပုံရှိသော အနံ့ငယ်များ ထွက်ကြသည်။ အစေ့များသည် သေးငယ်၍ ရှည်မျောမျော ဖြစ်ကြလေသည်။

မြန်မာနိုင်ငံ မိုးပါးသော ဒေသများတွင် အထူးသဖြင့် မြန်မာနိုင်ငံ အလယ်ပိုင်း၌ သက်ငယ်များကို အိမ်မိုးရန်အတွက် အသုံးပြုကြသည်။ မြို့ကြီးပြကြီးများရှိ အဆောက်အအုံများကို အုတ်ကြွပ်၊ သွပ်၊ အင်္ဂတေပြား စသည်တို့ဖြင့် အမိုး မိုးကြသော်လည်း ကျေးလက်များတွင် သက်ငယ်ကို လက်မလွှတ်နိုင်ကြပေ။ ကြာရှည်ခံသော အိမ်မိုးအဖြစ် အသုံးမပြုနိုင်သော်လည်း ကာလဒေသအလိုက် သုံးစွဲလုပ်ကိုင်နေကြရပေသည်။

အိမ်မိုးရန် သက်ငယ်များကို ရင့်၍ ဝါလာသောအခါ ရိတ်ဖြတ်ကြရသည်။ ရိတ်ဖြတ်ပြီးသော သက်ငယ်များကို ထိုအတိုင်း အိမ်မိုး မိုးကြရသည် မဟုတ်ပေ။ အိမ်မိုး မိုးနိုင်အောင် သက်ငယ်အပျစ်များ ပြုလုပ်ကြရသည်။ မြန်မာနိုင်ငံ အောက်ပိုင်း၌ ဓနိများကို ဓနိပျစ်ပြုလုပ်၍ အိမ်မိုးကြရသကဲ့သို့ဖြစ်ပေသည်။ သက်ငယ်များကို အပျစ်ဖြစ်အောင် ပြုလုပ်ခြင်းကို သက်ငယ်ပျစ်သည်ဟု ခေါ်သည်။ သက်ငယ်ပျစ်ပုံမှာ တုတ်တံရှည်တခုကို ခံ၍ သက်ငယ်ရွက်ကို ခေါက်ချိုးချလိုက်ရသည်။ ခေါက်ချိုးချလိုက်သော သက်ငယ်ရွက်ကို တုတ်တံ၌ မြဲနေစေရန် တဓပ်ဟုခေါ်သော တုတ်ချောင်းငယ်များဖြင့် တွယ်ပေးရသည်။ တရွက်ပြီးတရွက် ဆင့်ကာ ဆင့်ကာ ဤသို့ တွယ်သွားပေးခြင်းဖြင့် သက်ငယ်တပျစ် ရရှိလေသည်။ သက်ငယ်ပျစ်သည့် လုပ်ငန်းသည် ကျေးလက်များ၌ အိမ်တွင်းမှု လုပ်ငန်းတရပ် ဖြစ်လေသည်။

အိမ်မိုးသောအခါ သက်ငယ်ပျစ်များကို အောက်မှ ဝါးလုံးတန်းများခံကာ ဆင့်ကဲဆင့်ကဲ အစိတ်အကျဲ ညီညာစွာဖြင့် တုတ်ချည်ကြရလေသည်။ ထိုနောက်မှ အပေါ်မှ ဝါးများဖြင့် ဖိထားပေးရသည်။ သို့မဟုတ်က လေပြင်းသည့်အခါ အမိုးများ လန်သွားနိုင်ပေသည်။ သက်ငယ်ရွက်များသည် ဓနိရွက်များလောက် အသားမထူခြင်း၊ အရွက်မရှည်ခြင်း၊ ပြက်မကျယ်လှခြင်းတို့ကြောင့် မိုးများများရွာသည့် ဒေသများ၌ကား သက်ငယ်ကို အသုံးပြု၍ မဖြစ်ချေ။

**သက်တံ့။** ။မှားသောအားဖြင့် မိုးရွာအုံ့ဆဲဆဲ အချိန်၊ သို့မဟုတ် မိုးရွာစ အချိန်မျိုးတွင် နေကလည်း ပွင့်လျက်ရှိစဉ် ကောင်းကင်၌ လေးကိုင်းကဲ့သို့ ညွတ်ကွေးလျက်ရှိသောပုံစံဖြင့် စက်ဝိုင်းခြမ်း နီးပါး ထင်နေတတ်သည့် ရောင်စုံသက်တံ့ကို လူတိုင်းပင် မြင်ဘူးကြပေမည်။ သို့သော် နေကကြည့်သူ၏ ကျောဖက်တွင် ထွန်းလင်းနေပြီးလျှင် ကြည့်သူ၏ ရှေ့ဖက်တွင် မိုးကလည်း ရွာနေသော အခြေအနေမျိုးနှင့် ဆုံစည်းမှသာ သက်တံ့ကို မြင်ရတတ်ကြပေသည်။

တခါတရံတွင် မူလသက်တံ့ အပြင်ဖက်၌ ခပ်မှိန်မှိန်ထင်သော ဒုတိယသက်တံ့ကို တွေ့မြင်ရတတ်၍၊ ထိုဒုတိယသက်တံ့ကို သေသေချာချာကြည့်လျှင် ယင်း သက်တံ့ရှိ အရောင်စင်းများသည် ပဌမသက်တံ့ရှိ အရောင်စင်းများနှင့် ပြောင်းပြန် ဖြစ်နေသည်ကို တွေ့ရလိမ့်မည်။ ဒုတိယသက်တံ့အပြင်ဖက်၌ တတိယသက်တံ့လည်း ဖြစ်ပေါ်တတ်၏။ သို့သော် ဖြစ်ပေါ်ခဲပေသည်။

ရောင်စုံသက်တံ့ကို ကျွန်ုပ်တို့ဖာသာလည်း ပြုလုပ်၍ဖြစ်ပေါ်စေနိုင်ပေသည်။ နေသာသော နေ့တနေ့တွင် နေကို ကျောပေးလျက် ပါးစပ်ထဲ၌ ရေငုံပြီး မှုတ်ထုတ်ကြည့်ပါ။ သို့မဟုတ် ပန်းခြံသုံး ရေဖျန်းပြွန်ဖြင့် ရေကို ဖွာထွက်အောင် ပန်းထုတ်ပေးပါ။ ထိုအခါ နေနှင့် လူ၏ အနေအထားတို့ မှန်ပါက သဘာဝ သက်တံ့အတိုင်း ရောင်စုံ သန်းလျက် ရှိသော လုပသည့် သက်တံ့ဖြစ်ပေါ်လာပုံကို ကောင်းစွာ တွေ့ရလိမ့်မည်။

သက်တံ့ဖြစ်ပေါ်ပုံ အကြောင်းရင်းကို မသိမီ ရှေးအခါက သက်တံ့ကို လူပြည်နှင့် နတ်ပြည်ကို ဆက်သွယ်ထားသည့် နတ်လမ်းဟူ၍၎င်း၊ အချို့ကလည်း သက်တံ့ဆုံးရာ အရပ်၌ အဖိုးထိုက်ရတနာများ ရှိသည်ဟူ၍၎င်း လူမျိုး အသီးအသီးကပင် အမျိုးမျိုး ထင်ကြေးပေးပြီး ယုံကြည်လာခဲ့ကြသည်။ သို့ရာတွင် သက်တံ့မှာ နေ၏အလင်းရောင်နှင့် မိုးသား မိုးပေါက်တို့ အပေါ်တွင် မှီပြီး ဖြစ်ပေါ်လာသည့် ရှုခင်းအမြင်မျှသာဖြစ်ရကား သက်တံ့မှာ အမြင်သာ နီး၍ မည်သည့်နည်းနှင့်မျှ သက်တံ့ရှိရာသို့ လိုက်ရန်မဖြစ်နိုင်ပေ။

သက်တံ့ဖြစ်ပေါ်ရပုံမှာ ဤသို့တည်း။ နေမှ ထွက်လာသော အလင်းတန်းများသည် ကောင်းကင်တွင် ဆိုင်းလျက်ရှိသော မိုးပေါက် ရေလုံးကလေးများအတွင်းသို့ ဖြတ်ဝင်သောအခါ အလင်း လမ်းကြောင်း ယိုင်သွားလေသည်။ ရေလုံးကလေးတို့၏ ကျောဖက် နံရံနှင့် ထိတွေ့သောအခါ အလင်းပြန်ဟပ်လာပြီးနောက် ရေလုံးကလေးများ အတွင်းမှ လေထုသို့ ဖောက်ထွက်လာသောအခါ နောက်တကြိမ် အလင်း ပြန်ယိုင်သွားပြန်လေသည်။ဤကဲ့သို့ ရေလုံးကလေးများကို ထွင်းဖောက်၍ အလင်းယိုင်သွားသောအခါ သာမန်အားဖြင့် အဖြူရောင်ရှိသည့် နေ၏ အလင်းရောင်သည်

ခရမ်း၊ မဲနည်း၊ အပြာ၊ အစိမ်း၊ အဝါ၊ လိမ်မော်၊ အနီဟူသော အစီအစဉ်ဖြင့် အရောင် ခုနစ်မျိုး ကွဲထွက်သွားလေသည်။ ဤ ရောင်စုံအလင်းတန်းများ ကျွန်ုပ်တို့၏ မျက်စိအတွင်းသို့ ဝင်ရောက်လာမှုကြောင့် သက်တံ့ ဟုခေါ်သော စက်ဝိုင်းခြမ်း သဏ္ဌာန် ရောင်စုံ အစင်းများကို ကျွန်ုပ်တို့ မြင်ရခြင်း ဖြစ်လေသည်။ သို့သော် မျက်စိထဲသို့ ဝင်ရောက်လာသော ထိုရောင်စုံ အလင်းတန်းများမှာ မိုးပေါက်ကလေးတခုတည်းမှ ထွက်လာခြင်းမဟုတ်၊ မျက်စိနှင့် အနေအထားမှန်သည့် မိုးပေါက်ပေါင်း ကုဋေကုဋာမှ ထွက်လာခြင်းဖြစ်သည်ကို ကျွန်ုပ်တို့ သတိပြုရသည်။

တခါတရံတွင်လည်း နေနှင့် လတို့၏ ဘေးပတ်လည်တွင် ဖြူယောင်ယောင် ရှိသော စက်ဝိုင်းပုံ အရောင်စင်းဖြင့် ဖြစ်စေ၊ စက်ဝိုင်းပုံ အရောင်ပြင်ဖြင့် ဖြစ်စေ ရစ်ဝိုင်းထားတတ်ပုံကို တွေ့မြင်ရတတ်သည်။ ဤသို့ဖြစ်နေခြင်းကိုနေထီးဆောင်းသည်၊ လထီးဆောင်းသည်ဟု ဆိုစမှတ် ပြု ကြသည်။ ဤအခြင်းအရာမှာ သက်တံ့တမျိုးပင် ဖြစ်ပေသည်။ ဤသို့ဖြစ်ခြင်းမှာ အလွန် မြင့်မားသော ကောင်းကင်၌ ရေခဲပွင့်များ ပါဝင်သည့် တိမ်လွှာရှိနေစဉ်၊ သို့မဟုတ် အလွန်သေးငယ်သော ရေလုံး မှုံပေါက်ကလေးများ ပါဝင်သည့် တိမ်လွှာများ ခပ်နိမ့်နိမ့် နေရာ၌ ဆိုင်းလျက်ရှိစဉ် အဆိုပါ ရေခဲပွင့်နှင့် ရေလုံးကလေးများကို နေနှင့် လတို့မှ အလင်းတန်းများ ထွင်းဖောက်ရာမှ အလင်းယိုင်သွားခြင်းကြောင့် ဖြစ်လေသည်။ နှင်းကျနေချိန်တွင် လမ်းမီးတိုင်မီးလုံးကို ကြည့်လျှင်လည်း အလားတူထီးဆောင်းလျက် ရှိပုံမျိုးကို ကျွန်ုပ်တို့ တွေ့မြင်ရတတ်လေသည်။

**သက်ရင်းကြီးပင်။** ။သက်ရင်းငါးမျိုးအနက် တမျိုးအပါအဝင်ဖြစ်သော သက်ရင်းကြီးပင်ကို သစ်ရင်းကြီးပင်ဟုလည်း ခေါ်ကြသည်။အခြားသက်ရင်းမျိုးတို့မှာ (၁) သက်ရင်းသိန်၊ (၂) သက်ရင်းဖြူ၊ (၃) သက်ရင်းကတိုး၊ (၄) သက်ရင်းပေပြတ်တို့ ဖြစ်သည်။ သက်ရင်းကြီးပင်သည် အပူပိုင်းဇုန်ဒေသတွင် မူလပေါက်ရောက်သော အပင်မျိုးဖြစ်ပြီးလျှင် ယူဖော်ဗီယေးစီအီး မျိုးရင်းတွင်ပါဝင်သည်။ ရုက္ခဗေဒအမည်မှာ ကရိုတန် အော့ဗလွန်ဂျီဖိုးလီယပ်ဖြစ်သည်။ မြန်မာ နိုင်ငံ အထက်နှင့်အောက် မြေညီနှင့် တောင်နိမ့်ပိုင်း သစ်တောများ၌ ပေါက်ရောက်လေသည်။

ယင်းအပင်တို့သည် ပေ ၃၀ မှ ၄၀ ခန့်မျှသာ အမြင့်ရှိ၍ ပင်စည်လုံးပတ် သုံးပေမှ လေးပေ၊ တခါတရံ ထိုအောက်ပင် အပင်လုံးသေးသော သစ်ပင်ငယ်မျိုးဖြစ်သည်။ အရွက်တို့သည် ရွက်ဖားကြီးများဖြစ်၍ အရင်းသွယ်ပြီးလျှင် အဖျားချွန်သည်။ လွှသွားစိတ် မသိမသာ ပါရှိသည်။ ရွက်လွှဲထွက်သည်။ ပွင့်ဖတ်မပါသော ပန်းကလေးများသည် အကိုင်းအခက်များ အဖျားမှ အတံကလေးများဖြင့် ထွက်၍ ပွင့်သည်။ အဖူးအညွန့်တို့ကို ချိုးဖြတ်လိုက်လျှင် နို့ရည်နှင့်တူသော အစေးမျိုးထွက်သည်။ အဖူးအပွင့်နှင့် အရွက်နုတို့သည် အနံ့တမျိုးရှိလေသည်။

သက်ရင်းကြီးပင်၏ သစ်သားသည် ဝါရောင်ရောင်ရှိ၍ အတော်အသင့် မာသည်။ အကြော သိပ်သည်းသည်။ လေသလပ်ထား၍ အသားသေပြီး သက်ရင်းကြီးသားသည် ကုဗတပေလျှင် ၄၄ ပေါင် လေးသည်။ သို့သော် ထိုသစ်ကို အသုံးနည်းကြသည်။ မြန်မာနိုင်ငံ သစ်တောများ၌ ချိပ်ပိုးများနေလေ့ရှိသော သစ်ပင်တို့တွင် သက်ရင်းကြီးပင်လည်း ပါဝင်လေသည်။

မြန်မာလူမျိုးတို့သည် သက်ရင်းကြီးရွက်နုတို့ကို ပြုတ်၍ အတို့အဖြစ်ငင်း၊ အသုပ်ပြုလုပ်၍ငင်း စားသုံးကြသည်။ အမြစ်၊ အခေါက်၊ အရွက်တို့သည် ဆေးဖက်ဝင်သည်ဟု ဆိုကြသည်။

မြန်မာဆေးကျမ်းများ အလိုအရ သက်ရင်းကြီးသည် သွေးကိုကြွစေတတ်၏။ အားကိုင်း၊ လေကိုင်း ကြေစေတတ်၏။ လေထုတ်ခြင်းကိုလည်း ပြုတတ်၏။ သလိပ်ကိုလည်း ပယ်နိုင်၏။ ဝမ်းကိုလည်း ဖြောင့်စေတတ်၏ ဟု ဆိုသည်။

သက်ရင်းကြီး အသီးမှရရှိသော အစေ့ကို ဝမ်းနှုတ်ဆေးအဖြစ် သုံးကြသည်။ အခေါက်ကိုမူ အသည်းကြီးရောဂါအတွက် အသုံးပြုကြသည်။ အရွက်ကို အတွင်းကြေ ကြေသော ဒဏ်ရာများအတွက် မိဿလင်ဉ၊ နနွင်းစိမ်းတို့နှင့် အတူကြိတ်၍ အုံကြသည်။ အနာဆွေး၊ အနာဟောင်းများကိုလည်း သက်ရင်းကြီးရွက်ကို ကြိတ်၍အုံပေးက အနာကျက်ပြီးလျှင် အသားနုအတက်မြန်သည်ဟု ဆိုကြသည်။

အိန္ဒိယ ဆေးကျမ်းများ အလိုအရ သက်ရင်းကြီးအခေါက်သည် နာတာရှည် အသည်းကြီးရောဂါ၊ တက်ဖျားကျဖျား ရောဂါများအတွက် ကောင်းသည်။ နာတာရှည်အသည်းရောင်နာ ဖြစ်လျှင် အခေါက်ကိုသွေး၍ အသည်းနေရာတဝိုက်တွင် လိမ်းပေးရသည်။အတွင်းကြေ ကြေသော ဒဏ်ရာ၊ အဆစ်မျက်ခြင်း၊ ရှုမက်တစ်ရောဂါကြောင့် ရောင်ရမ်းခြင်း ဖြစ်လျှင်လည်း အခေါက်ကိုသွေး၍ လိမ်းပေးရသည်။ မြွေကိုက်ခံရလျှင် သက်ရင်းကြီးခေါက်သည် ဆေးစွမ်းကောင်းတလက် ဖြစ်နိုင်သည်ဟု ဆိုလေသည်။

**သက်လူမျိုး။** ။ပြည်ထောင်စုမြန်မာနိုင်ငံ၏ တိုင်းရင်းဘွားလူမျိုးတမျိုးဖြစ်သော သက်လူမျိုးသည် တိဗက်–မြန်မာ အုပ်စုကြီး၏ ရခိုင်အုပ်စုခွဲတွင် ပါဝင်သည်။ ရခိုင်တိုင်း၏ တောင်ရိုးနယ်များဖြစ်ကြသော မေယုခရိုင်၊မောင်းတော၊ ရသေ့တောင်၊ ဘူးသီးတောင် မြို့နယ်တို့တွင် နေ



မြန်မာ့နွယ်ဝင် သက်အမျိုးသားနှစ်ဦး

ထိုင်ကြသည်။ အနီးအနားရှိ ခမ္မီ၊ ရခိုင်၊ ဒိုင်းနက်၊ မရမာကြီး၊ ဟိန္ဒူ စသည့် လူမျိုးများနှင့် ရောနှောနေထိုင်ကြသော်လည်း များသော အားဖြင့် သက်လူမျိုးချည်း သက်သက် သီးခြား ရွာတည်၍လည်း နေထိုင်လေ့ရှိကြသည်။

သက်လူမျိုးတို့၏ ပုံပန်းသဏ္ဍာန်မှာ မြန်မာတို့နှင့် ဆင်ဆင်တူ၍ မျက်လုံး၊ မျက်ခုံး၊ နှာတံတို့သည် ထင်ရှား ပေါ်လွင်ခြင်း မရှိလှချေ။ ဆံပင်နက်၍ အသားလတ်သည်။ အယပ်အမောင်း ငါးပေနီးပါးရှိ၍ ကိုယ်ခန္ဓာအချိုးအဆက် ကြည့်ကောင်းရုံမျှ ဖြစ်လေသည်။

အမျိုးသားများသည် ဆံပင်ရှည်ထား၍ နားပေါက်ဖောက်လေ့ ရှိသည်။ တံပက် ပုဝါ ပေါင်းလေ့ ရှိသည်။ အခြားဝတ်စား ဆင်ယင်မှုမှာ မြန်မာအမျိုးသားတို့ နည်းတူ ဖြစ်လေသည်။ အမျိုးသမီးများသည် အင်္ကျီရင်စေ့ ဝတ်လေ့ရှိသည်မှအပ မြန်မာအမျိုးသမီးများကဲ့သို့ပင် ဝတ်စား ဆင်ယင်၍ မြန်မာ အမျိုးသမီးများကဲ့သို့ပင် ပုတီး၊ ဇလည်ဆွဲ၊ နားတောင်း၊ လက်ကောက် စသော လက်ဝတ်တန်ဆာများကို ဆင်ယင်ကြသည်။

အင်္ဂလိပ်တို့ မသိမ်းပိုက်မီ အခါက ရခိုင်ဘုရင် စိုးမင်းများ၏ အအုပ်အချုပ်ကို ခံယူခဲ့သော လူမျိုးဖြစ်လေသည်။

သက်တို့ နေထိုင်ရာ ဒေသသည် တောတောင်ထူထပ်၍ မိုး များသည်။ မြေညီလွင်ပြင်နည်းပါးသဖြင့် တောင်ယာစံနစ်ဖြင့်သာ စိုက်ပျိုးသော အသီးအနှံများမှာ စပါးအပြင် ငြုတ်၊ ခရမ်း အစရှိသော ဟင်းသီးဟင်းရွက်များ ဖြစ်ကြ၍ စားလောက်ရုံမျှသာ စိုက်ပျိုးကြသည်။ စိုက်ပျိုးရေးလုပ်ငန်းမှ လွဲလျှင် ရက်ကန်း ရက်ခြင်းကို လုပ်ကိုင်ကြသည်။ သက်တို့ဒေသမှ ပြောပလောက်အောင် ထွက်ကုန် ပစ္စည်း မရရှိချေ။

သက်လူမျိုးတွင် သက်ဘာသာစကား ရှိသော်လည်း သက်စာပေ ဟူ၍ကား မရှိချေ။ မြန်မာစာပေကို အသုံးပြုကြ၍ မြန်မာ စကားကို နားလည် ပြောဆိုနိုင်သူ များသည်။ အများစုသည် ဗုဒ္ဓဝါဒီများ ဖြစ်ကြသည်။ သက်လူမျိုးတူရိယာ ဟူ၍လည်း သီးခြားမရှိ၍ မြန်မာ တူရိယာတို့ကိုပင် အသုံးပြုကြလေသည်။

လက်နက်အဖြစ် ဓား၊ လှံ၊ လေးမြားတို့ကို သုံးသည်။ သက်တို့၏အသုံးအဆောင်ပစ္စည်းများတွင် ဝါးခြင်းတောင်း၊ ဗန်း စသည်တို့အပြင် သစ်သားခွက်၊ မြေအိုး စသည်တို့လည်း ပါဝင်ပေသည်။

သက်တို့၏ ဓလေ့ထုံးစံများအနက် အမည်ပေးပုံမှာ မြန်မာနည်းအတိုင်းပင် ဖြစ်သည်။ လူကြီးမိဘများက အမည်ပေးလေ့ ရှိ၍ ဗေဒင် တွက်ချက်ပြီးလျှင် မြန်မာရက်နှင့် အက္ခရာစဉ်အတိုင်း စနေသားဖြစ်လျှင် မောင်ထင်၊ မောင်နီး စသည်ဖြင့် နာမည်မှည့်ကြလေသည်။

တလင်တမယားစံနစ်ကို လိုက်နာကျင့်သုံးကြ၍ ဆွေမျိုးမတော်စပ်သူ အချင်းချင်းသာ လက်ထပ်လေ့ ရှိကြသည်။ လက်ထပ်သည့်အခါ လူကြီးမိဘများရှေ့တွင် ကြက်သားဟင်းနှင့် ထမင်းပွဲတည်ခင်းပြီးလျှင် သတို့သားက သတို့သမီးအား လက်ထပ်ခြင်းကို သဘောတူပါ၏လောဟု မေးသည်။ သတို့သမီးက သဘောတူကြောင်း ပြောလျှင် အရက်တခွက်စီ သောက်ကြ၍ ထမင်းဟင်းကို နှိုက်စားပြခြင်းဖြင့် လက်ထပ်မင်္ဂလာကိစ္စကို ပြီးမြောက်စေသည်။ လက်ထပ်ပွဲကို နံနက်၊ ညနေ နှစ်သက်ရာအချိန်၌ သတို့သားအိမ်၌သာလျှင် ကျင်းပကြရ၍ လက်ထပ်ပြီးသည်နှင့်မိန်းကလေးသည် ယောကျ်ားကလေးအိမ်၌ နေရစ်ရလေသည်။

လူသေလျှင် မြေမြှုပ်သင်္ဂြိုဟ်လေ့ရှိရာ မြေမြှုပ်သည့်အခါ သေသူ အသက်ထွက်ချိန်တွင် ဝတ်ဆင်ထားသော အဝတ်အစားကိုပင် အလောင်း၌ ဝတ်ဆင်ပေးသည့်အပြင် အပိုဝတ်စုံ တစုံကိုပါ အလောင်းနှင့်အတူ ထည့်သွင်း မြှုပ်နှံလိုက်ကြသည်။

အမွေပစ္စည်းခန်း၌ အမျိုးသမီးများသည် အမျိုးသား

များနှင့် တန်းတူ အခွင့်အရေး မရချေ။ အိမ်ထောင်ရှင် ယောကျ်ား သေဆုံးခဲ့သော် သားယောကျ်ားသာလျှင် အမွေကို ဆက်ခံရ၍ ဇနီးမိန်းမသည်၎င်း၊ သမီးသည်၎င်း အမွေကို မခံစားကြရချေ။ သားယောကျ်ား မရှိလျှင် သေသူ၏ မိဖများက အမွေပစ္စည်းကို သိမ်းပိုက်လိုက်ကြလေသည်။

သက်လူမျိုးတို့သည် မြန်မာတို့ကဲ့သို့ပင် ဆန် ထမင်းနှင့် အသားဟင်း၊ ဟင်းသီးဟင်းရွက်တို့ကို စားသောက်သည်။ တနေ့ထမင်းသုံးကြိမ် (နံနက်စောစော၊ နေ့လယ်၊ ညနေ) စားလေ့ ရှိကြသည်။ ယင်းတို့၏ မုံ့ပဲသွားရည်စာတို့မှာလည်း မြန်မာတို့ကဲ့သို့ပင် ကောက်ညှင်းထုပ်၊ မုံ့ဆီကြော် စသည်တို့ ဖြစ်လေသည်။

သက်အမျိုးသားများသည် ထိုးကွင်းမှင်ကြောင် မထိုးကြသော်လည်း ကြက်ရုပ်၊ ငှက်ရုပ်များကို လက်မောင်းတွင် ထိုးလေ့ ရှိကြသည်။

ဗင်္ဂလားဒေ့ရှနိုင်ငံတွင် ချက္ကမဟုလည်း ခေါ်သော သက်လူမျိုးများ ရှိသေးသည်။ မြန်မာနိုင်ငံ ကေတုမတီ၊ ဟံသာဝတီ စသည်တို့မှ စစ်မက်ရေးကြောင့် တိမ်းရှောင်လာသူများ၏ အဆက်အနွယ်များ ဖြစ်သည်ဟု ဆိုကြလေသည်။ ပုံပန်းသဏ္ဌာန်မှာ မြန်မာတို့နှင့် တူသည်။ သို့သော် မြန်မာစကားလည်းမတတ်၊ ရခိုင်စကားလည်း မတတ်ကြချေ။ ဗင်္ဂါလီ လူမျိုးတို့ကဲ့သို့ ပြောဆိုနေထိုင်လျက် ရှိကြသည်။ရခိုင်တိုင်းရှိသက်လူမျိုးတို့ထက်ပင်အရေအတွက်များပြားလှရာ လူဦးရေတသိန်းခန့်ပင် ရှိမည်ဟု ခန့်မှန်းကြသည်။

# အရဏ်ကြယ်

**နေနှင့် ဒုတိယ အနီးဆုံး ကြယ်ကြီး၊ ကမ္ဘာထက်ပင် သောကြာဂြိုဟ်က နေကို လှည့်ပတ်ရာ၌ ပိုမြန်သည်။ လဆန်း လဆုတ် ပုံသဏ္ဌာန်ပြောင်းသကဲ့သို့ သောကြာဂြိုဟ်လည်း ပုံသဏ္ဌာန်ပြောင်းသည်။ ယခုအခါ အာကာသယာဉ်များ ပစ်လွှတ်၍ သောကြာဂြိုဟ်အကြောင်း စူးစမ်းမှုများ ပြုလုပ်လျက်ရှိသည်။**

**သောကြာဂြိုဟ်။** ။နံနက် နေမထွက်မီ အရဏ်တက်အချိန်တွင် အရှေ့ကောင်းကင်ယံသို့ ကြည့်လိုက်လျှင် အလွန်တောက်ပသော ဂြိုဟ်တလုံးကို တွေ့ရပေသည်။ အလွန်ထွန်းလင်းတောက်ပသောကြောင့် ယင်းကိုကောင်းကင်တွင် အခြားဂြိုဟ်များထက် လွယ်ကူစွာ မြင်ရသည်။ ထိုဂြိုဟ်ကား အရဏ်ကြယ်၊ သို့မဟုတ် သောက်ရှူးကြယ်ဟု ခေါ်လေ့ရှိသော သောကြာဂြိုဟ်ပင်ဖြစ်သည်။ ယင်းကို နေဝင်ပြီးနောက် ဆည်းဆာအချိန်တွင် အနောက်ကောင်းကင်ယံ၌လည်း မြင်ရတတ်သေးသည်။ သောကြာဂြိုဟ်ကို ရှေးဂရိလူမျိုးတို့က ဗီးနပ်အမည်ရှိသော သူတို့၏ သူရသတီ နတ်သမီးကို အစွဲပြု၍ 'ဗီးနပ်' ဟု ခေါ်ကြသည်။

နေကို ဗဟိုပြု၍ လှည့်ပတ်နေကြသော နေစကြဝဠာမိသားစုထဲရှိ ဂြိုဟ်ကြီးကိုးလုံးအနက် သောကြာဂြိုဟ်သည် နေနှင့် ဒုတိယအနီးဆုံးသော ဂြိုဟ်ဖြစ်၍ နေမှ ပျမ်းမျှမိုင်ပေါင်း ၆၇,၂၀၀,၀၀၀ ကွာဝေးသည်။ သို့သော် ကမ္ဘာနှင့် နေအကြားတွင်ရှိသောအခါ ယင်းသည် ကမ္ဘာမှ မိုင်ပေါင်း ၂၆,၀၀၀,၀၀၀ မျှသာ ကွာဝေးသည်။ အကယ်၍ နေ၏ တဖက်တွင် ကမ္ဘာရှိ၍ နေ၏အခြားတဖက်တွင် သောကြာဂြိုဟ်ရှိနေလျှင်ကား ကမ္ဘာနှင့် သောကြာဂြိုဟ်တို့၏ အကွာအဝေးသည် မိုင်ပေါင်း ၁၆၀,၀၀၀,၀၀၀ အထိ ရှိသည်။ နေနှင့် လတို့ကလွဲလျှင် သောကြာဂြိုဟ်သည် ၂၂၅ ရက်နှင့် နေကို တပတ်ပြည့်အောင် လှည့်သဖြင့် ကျွန်ုပ်တို့ ကမ္ဘာထက် နေကိုလှည့်ပတ်ရာ၌ မြန်သည်။ သောကြာဂြိုဟ်လုံး၏ အချင်းမှာ မိုင် ၇,၇၀၀ ရှိသောကြောင့် အရွယ်အားဖြင့် ကျွန်ုပ်တို့ကမ္ဘာနီးပါးမျှရှိသည်။

လသည် လဆန်း လဆုတ်အလိုက် ပုံသဏ္ဌာန် အမျိုးမျိုး ပြောင်းလဲ သကဲ့သို့ သောကြာဂြိုဟ် သည်လည်း ပုံသဏ္ဌာန်အမျိုးမျိုး ပြောင်းလဲသည်။ နေ၏တဖက်တွင် ကမ္ဘာလုံးရှိနေ၍ နေ၏ အခြားတဖက်တွင် သောကြာဂြိုဟ်ရှိနေသည့်အခါ ယင်းသည် ကမ္ဘာနှင့် အလွန်ဝေးသောကြောင့် အလွန်သေးငယ်စွာ မြင်ရသည်။ သို့သော် နေ၏အလင်းရောင်ကို အပြည့်အဝ ရသောကြောင့် ယင်း၏ပုံသဏ္ဌာန်မှာ လပြည့်ဝန်းကဲ့သို့ရှိပြီးလျှင် တောက်ပ၏။ သောကြာဂြိုဟ်သည် ကမ္ဘာနှင့် နေအကြားတွင် တတန်းတည်းဖြစ်၍ ကမ္ဘာနှင့် အနီးဆုံးရှိနေသည့်အခါ ယင်းကို သေးငယ်သော ဆန်းကာစ လပုံသဏ္ဌာန်ကဲ့သို့ ရေးရေးကလေးမျှသာ မြင်ရသည်။ သို့သော် ဤသို့ ကမ္ဘာနှင့်အနီးဆုံးနေရာသို့ မရောက်မီ ၃၆ ရက်နှင့်ရောက်ပြီး ၃၆ ရက်အ•ခွန် နေ့တို့၌သာ သောကြာဂြိုဟ်၏ ပုံသဏ္ဌာန်ကို ငါးရက်မြောက် လခြမ်းပုံအရွယ်ထိ ခပ်ကြီးကြီး မြင်ရပြီးလျှင် ထိုအချိန် ထိုအရွယ်တွင် သောကြာဂြိုဟ်သည် အထွန်းလင်းဆုံးဖြစ်၏။ နေ့ခင်းအချိန်တွင်ပင် ပကတိမျက်စိဖြင့် မြင်နိုင်သည့်ပြင် နေဝင်ပြီးသည့်နောက်၌လည်း အရိပ်ပေါ်သောက်အောင် ထွန်းတောက်သည်။

သောကြာဂြိုဟ်သည် ၂၂၅ ရက်နှင့်နေကို တပတ်ပြည့်အောင် လှည့်ပတ်ကြောင်း သိရသော်လည်း ယင်း၏ဝင်ရိုးပေါ်၌ တပတ်လည်ရန် မည်မျှကြာသည်ကိုကား အငြင်း

ပွားလျက်ရှိသည်။ အချို့နက္ခတ်ဆရာများက နေကိုတပတ်ပြည့်အောင် ၂၂၅ ရက်ကြာသလောက် ယင်း၏ ဝန်ရိုးပေါ်၌လည်း တပတ်လည်အောင် ၂၂၅ ရက်ပင် ကြာသည်ဟု ယူဆကြသည်။ အချို့ကမူ ဤမျှကြာသည်မဟုတ်ပဲ ရက်သတ္တသုံးပတ်မှ လေးပတ်အထိသာ ကြာသည်ဟု ဆိုကြသည်။ သို့သော် မည်သူမျှ အတိအကျ မသိရှိကြသေးချေ။

သောကြာဂြိုဟ်၏ပတ်ဝန်းကျင်၌ တိမ်တောင် တိမ်လိပ်များ အမြဲဖုံးအုပ်နေသောကြောင့် လေရှိကြောင်း သိရသည်။ သို့သော် ထိုလေမှာ အလွန်ထူထပ်သော လေထုဖြစ်သောကြောင့် မှန်ပြောင်းဖြင့် ကြည့်သည့်အခါ ဂြိုဟ်၏မျက်နှာပြင်ကို ထင်ထင်ရှားရှား မမြင်ရချေ။ နေမှရရှိသော ဂြိုဟ်၏အပူရှိန်သည်လည်း သက်ရှိ သတ္တဝါတမျိုးမျိုးတို့နေနိုင်ရန်အတွက် လုံလောက်သည်ဟု ယူဆနိုင်စရာအကြောင်းရှိသည်။ သို့သော် လူတို့နေနိုင်ရန်အတွက် လိုအပ်သော ဓာတ်ငွေ့များ လုံလောက်စွာ ရှိမရှိကိုမူကား မည်သူမျှ သေချာစွာ မပြောနိုင်ချေ။

ယခု ကျွန်ုပ်တို့ခေတ် လူသားများသည် ကျွန်ုပ်တို့နေထိုင်သော ကမ္ဘာကြီး၏ နေရာအနှံ့အပြားသို့ သွားလာရသည်ကို တင်းတိမ်ခြင်း မရှိတော့ချေ။ ထို့ကြောင့် ယခုအခါ ကမ္ဘာပြင်ပသို့ထွက်၍ အခြား ဂြိုဟ်များသို့ သွားရောက်ရန် ကြံစည်အားထုတ်လျက် ရှိနေကြလေသည်။ ယင်းသို့ အားထုတ်ကြရာ၌ မရီးနား (၂) အာကာသယာဉ်ကို အမေရိကန်နိုင်ငံ ဖလော်ရီဒါပြည်နယ် ကင်နဒီအငူမှနေ၍ ၁၉၆၂ ခုနှစ် ဩဂုတ်လ ၂၇ ရက်နေ့တွင် အက်တလက်ဒုံးပျံကြီး၏ ထိပ်တွင်ထည့်၍ ပစ်လွှတ်ခဲ့ လေသည်။ မရီးနား (၂) ၏ပန်းတိုင်မှာ သောကြာဂြိုဟ်ပင်ဖြစ်သည်။ သောကြာဂြိုဟ်အနီးမှ ဖြတ်သန်းသွားပြီးလျှင် အချက်အလက်များကို သိပ္ပံပညာရှင်များထံသို့ ပို့ရမည်ဖြစ်သည်။ ယင်းတွင်ပါသွားသော ကရိယာများဖြင့် အာကာသကို စူးစမ်းရှာဖွေသွားရပေမည်။

အမေရိကန်အာကာသယာဉ် မရီးနား (၂)သည် စီစဉ်ထားသည့်အတိုင်း ၁၉၆၂ ခုနှစ် ဒီဇင်ဘာလ ၁၅ ရက်နေ့၌ သောကြာဂြိုဟ်အား မိုင်ပေါင်း ၂၁,၅၉၄ အကွာမှနေ၍ ၄၂ မိနစ်ကြာမျှ ဖြတ်သန်းစူးစမ်းခဲ့ပြီးနောက် နေကိုလှည့်ပတ်လျက် အဆုံးမရှိသောခရီးကို ဆက်လက်ထွက်ခွာသွားလေသည်။ မိုင်ပေါင်း ၃၆ သန်းမျှရှိသော ခရီးကိုလည်း ပေါက်ရောက်ခဲ့လေသည်။ သောကြာဂြိုဟ်အနီးမှ ဖြတ်သန်းသွားခဲ့စဉ် မရီးနား(၂)ပေါ်၌ပါသွားသောသိပ္ပံပညာဆိုင်ရာ ကရိယာများ၏ တွေ့ရှိချက်များကို သိပ္ပံပညာရှင်များထံသို့ ပြန်လည်ပေးပို့ခဲ့သည်။ ထိုနောက်တွင် မရီးနား (၂) အာကာသယာဉ်သည် ကမ္ဘာမှ တဖြည်းဖြည်း ဝေးသည်ထက်ဝေးကွာသွားပြီးလျှင် မြေပြင်ရှိ စခန်းများနှင့် အဆက်အသွယ် လုံးဝမရှိတော့ပေ။

ဆိုဗီယက် ပြည်ထောင်စုသည်လည်း သောကြာဂြိုဟ်စူးစမ်းမှုကို ၁၉၆၁ ခုနှစ်မှ စတင်ခဲ့သည်။ ယနေ့အထိ အာကာသယာဉ် ဆယ်စီးထက်မနည်း ပစ်လွှတ်ခဲ့ပြီးဖြစ်ရာ ၁၉၇၂ ခုနှစ် ဇူလိုင်လအတွင်း သောကြာဂြိုဟ်ပေါ်သို့ ရုရှလုပ် ဗီးနပ် အာကာသယာဉ်(၈) အောင်မြင်စွာ ဆင်းသက်ခဲ့သည်။ ထိုအချိန်မှစ၍ မိနစ် ၅၀ ကြာမျှ ကမ္ဘာသို့ သောကြာဂြိုဟ်၏ စိတ်ဝင်စားဖွယ် သိပ္ပံသတင်းဆန်းများကို ပြန်လည်ပေးပို့ခဲ့သည်။ယခင် ဗီးနပ်(၇)ကို ပစ်လွှတ်ခဲ့စဉ်ကလည်း အလားတူပင် သက်ဆင်း နိုင်ခဲ့သော်လည်း ၂၃ မိနစ်မျှသာကမ္ဘာသို့ ပြန်လည် အသံလွှင့်ပေးနိုင်ခဲ့သည်။

သောကြာဂြိုဟ်ပေါ်ရှိ ဓာတ်ပစ္စည်းများမှာ ကမ္ဘာပေါ်ရှိ ဓာတ်ပစ္စည်းများနှင့် အလွန်တူသည်ဟု ဆို၏။ သောကြာဂြိုဟ်၏ မျက်နှာပြင်အပူချိန်သည် ဖာရင်ဟိုက်ဒီဂရီ ၈၈၀ မျှ ရှိ၏။ ထိုအပူချိန်သည် လူနေ၍မရ၊ ခဲပင်အရည်ပျော်နိုင်သော အပူချိန်ဖြစ်သည်။

ဆိုဗီယက် သိပ္ပံ ပညာရှင်များ ခန့်မှန်းချက်အရ သောကြာဂြိုဟ်ကြီးသည် ကမ္ဘာကဲ့သို့ပင် တချိန်က အရည်ပျော်ခဲ့ဖူး၍ နောင်မှ တဖြည်းဖြည်းခဲကာ အပေါ်ယံမြေသားများ မာလာပြီးလျှင် ယခု မြင်တွေ့နေရသည့် အသွင်အပြင်အတိုင်း ဖြစ်လာသည်ဟု ဆို၏။

ထို့ပြင် နေမှလာသော ရောင်ခြည် သုံးပုံနှစ်ပုံသာ သောကြာဂြိုဟ်၏ တိမ်ထုကိုဖောက်၍ မျက်နှာပြင်ပေါ်သို့ ရောက်နိုင်ကြသည်။ သို့သော် ထိုတိမ်ထု ကာဆီးထားသည့်အတွက်ပင် ထိုရသောရောင်ခြည်များ အာကာသအတွင်းသို့ ပြန်လည် ထုတ်လွှင့်သောအခါ၌ အတားအဆီး ဖြစ်နေပြီးလျှင် ကျွန်ုပ်တို့ ကမ္ဘာကြီးကဲ့သို့ သောကြာဂြိုဟ်ပေါ်တွင် သမသောအပူချိန်မရှိပဲအပူချိန်လွန်ကဲ၍နေသည်ဟုဆိုသည်။

သောကြာဂြိုဟ်၏ တနေ့တာမှာ ကမ္ဘာမှ ရက်ပေါင်း ၁၁၆ ရက်နှင့် ညီမျှအောင် ရှည်လျားလှ၏။ ညဥ့်များသည်လည်း အလားတူပင် ရှည်ကြာလှသည်။ ထိုသို့ဖြစ်ရသည်မှာ သောကြာဂြိုဟ်သည် မိမိဝန်ရိုးပေါ်တွင် ၂၄၃ ရက်တွင်မှ တပတ်ပတ်နိုင်သောကြောင့် ဖြစ်သည်ဟု ဆို၏။ သောကြာဂြိုဟ်ပေါ်တွင် တိုက်ခတ်နေသည့် လေအရှိန်မှာလည်း မုန်တိုင်းကျနေသည်ဟု ထင်ရသောက်အောင်ပင် ပြင်းလှသည်ဟု ဆိုလေသည်။

လှေသင်း အတွင်းဝန် မင်းကြီး မဟာဇေယသင်္ခယာ ရေးသား စီရင်အပ်သော ဝေါဟာရ လီနတ္ထဒီပနီတွင် 'သောကြာဂြိုဟ်ဟု ခေါ်ဝေါ် ရေးသားကြသည်မှ ရာဇမတ္တဏ်ကျမ်း ဂဟာဘိဓာနတွင် ဘဂ္ဂဇော—သောကြာ၊ ဒေစ္စမန္တီ—သောကြာ၊ ဒစ္စစျကွိ—သောကြာ၊ ပုရောဟိ

တော–သောကြာ၊ ဥသနော–သောကြာ၊ ဘဂ္ဂဝေါ–သောကြာ၊ သုက္ကော–သောကြာ၊ ဘဂု–သောကြာ၊ ဒေဇ္ဇဂုရု–သောကြာ ဟူ၍ပရိယာယ် ကိုးပါးပြသည်။ အဘိဓာန်ဋီကာတွင်လည်း သုက္ကံ–သောကြာ ဟူ၍ ဂြိုဟ်ကိုးပါး အဖွင့်တွင်ဆိုသည်။ ထိုပရိယာယ်စုတွင် မြန်မာဘာသာမှာ သုက္ကဟူသောပုဒ်နှင့်အညီ ပုဂံ၊ အင်းဝ မင်းတို့လက်ထက် ရေးမှတ်သည့် ကျောက်စာများတွင် ဥသရနှင့် 'သုကြာနေ့' ဟု ရေးမှတ်ကြကုန်သည်။ ယခုအခါ 'သု'တွင်ရှိသော 'ဥ' သရကို 'သြ'ပြု၍ သင်္ကရိုင်္ဇအလို ကအက္ခရာမှာ ရရစ်နှင့် သောကြာဂြိုဟ်ဟု ခေါ်ဝေါ်ရေးသားကြလေသည်။ သုက္ကသဒ္ဒါ၏ အနက်ကား ဖြူသောအရောင်အဆင်းကိုဟောသည်။ သောကြာဂြိုဟ်မှာလည်း ဖြူသောအရောင်အဆင်းရှိသောကြောင့် ကမ္ဘာဦးသူတို့ သုက္ကဟူ၍ အမည်သမုတ် ခေါ်ဝေါ်ကုန်သည်။ 'ထိုသောကြာကြယ် ဥဒည်းမူသောအခါ၊ တက်သောအခါ ရှေးသူဟောင်းတို့ ဆေးဝါးရှာယူသည်။ ထိုသောကြာကြယ်ကိုပင် ရှေးမြန်မာသူဟောင်းတို့ သောက်ရှူးကြယ် ခေါ်ဝေါ်ကြကုန်သည်။ ကြေးနီကျောင်း ဒုတိယ ကျော်အောင်စံထားဆရာတော်စီရင်သည့် ဝေါဟာရတ္ထပကာသနီမှာ— သောက်ချောင်အချိန်တွင် မှူးသောအရောင် ထင်သည်ကိုအစွဲပြု၍ ခေါ်သည်ဟု ဆုံးဖြတ်လေသည်။ ကမ္ဘာတန်းဆာ ရာဇမန္တဏ်ယောဂယာတြာ နှစ်ကျမ်းတွင် ဘောဇကဋ္ဌတိုင်းသား သေတဗျအမျိုး ဘဂုရသေ့မယား သုဇိတာသား သောကြာဖြစ်ကြောင်းကို ဆိုသည်။

သောကြာဂြိုဟ်ကို အစွဲပြု၍ ရက်သတ္တပတ်၏ ခြောက်ရက်နေ့ကို သောကြာနေ့ဟုခေါ်သည်။

သောကြာဂြိုဟ်နတ်မင်းစီးသော ဂြိုဟ်ကောင်သည် ပူးဖြစ်သည်။ 'သောကြာမှာပူး၊ မြောက်စူးစူး၊ အထူးနှစ်ဆယ် စွန်းကယ်တနှစ်မျှ' ဟူသော ဂြိုဟ်လင်္ကာအရ သောကြာဂြိုဟ်သက်မှာ ၂၁ နှစ်ဖြစ်၍တည်ရာအရပ်သည်မြောက်အရပ်ဖြစ်၏။ ဗေဒင်အခေါ်အားဖြင့် သ၊ ဟ ဟူသော အက္ခရာ နှစ်လုံးကို သောကြာနံ အက္ခရာဟု ခေါ်သည်။

**သင်္ကဿနဂိုရ်ပြည်။** ။အဆူဆူသော ဘုရားရှင်တို့ မစွန့်အပ်သည့် အဝိဇဟိတ ဌာနကြီးလေးပါးတွင် သင်္ကဿနဂိုရ်ပြည်သည် တခု အပါအဝင် ဖြစ်သည်။ သင်္ကဿနဂိုရ်ပြည်သည် အိန္ဒိယနိုင်ငံ ဂင်္ဂါမြစ် တောင်ဖက်၌ တည်ရှိသော ဒက္ခိဏာပဉ္စလတိုင်း (ယခုအခေါ် ဥတ္တရဒေသပြည်နယ်) ၏ ရှေးအရှံမြို့တမြို့ဖြစ်သည်။ အာဂရာနယ် ဗာရစဗက် (ဖာရုခါဗာဒ်) စီရင်စုတွင် တည်ရှိသည်။အရှေ့အိန္ဒိယ မီးရထားလမ်းမကြီးရှိ ကိုဟာဗာဒ်နှင့် ဖာရုခါဗာဒ်လမ်းခွဲပေါ်တွင် တည်ရှိသော ပက္ခနာဘူတာမှ ငါးမိုင်ကွာဝေးသည်။ ယင်းလမ်းခွဲပေါ်ရှိ မိုတာခေါ် ဘူတာမှလည်း ငါးမိုင်ပင် သွားရသည်။ ရာဇဂြိုဟ်ပြည်၏ အနောက်မြောက်ဖက် ၃၀၆ မိုင်ဝေး၍ မဓုရာပြည်မှ လေးယူဇနာ (၃၂ မိုင်) ဝေးကြောင်းဆိုသည်။ ဓမ္မပဒ အဋ္ဌကထာ ပါဠိဟာရိယ ဝတ္ထု အဖွင့်၌ သင်္ကဿနဂိုရ်ပြည်သည် သာဝတ္ထိပြည်မှ ယူဇနာ သုံးဆယ်ကွာဝေးသည်ဟု ဆိုသည်။ ယခု သင်္ကဿရွာ (သံကိသာ) ဟုခေါ်သည်။

ဂေါတမမြတ်စွာဘုရားသခင်သည် ဘိုးတော် အဥ္ဇနမင်းဖြိုကြွင်းသက္ကရာဇ် ၁၀၉ ခု ဝါဆိုလပြည့်ကျော် တရက်နေ့မှ သီတင်းကျွတ် လပြည့်နေ့အထိ ဝါတွင်းသုံးလပတ်လုံး တာဝတိံသာ နတ်ပြည်၌ မယ်တော်ဖြစ်ဘူးသော သန္တုသိတနတ်သားကို အကြောင်းပြု၍ အဘိဓမ္မာတရားကိုဟောကြားတော်မူပြီးနောက် တာဝတိံသာ၌ပင် ပဝါရဏာပြု၍ လူ့ပြည်သို့ သက်ဆင်းတော်မူသည့်အခါ သင်္ကဿနဂိုရ်ပြည်အရှေ့တံခါးဝသို့ ဦးစွာ ခြေချတော်မူသည်ကို စွဲ၍ ဗုဒ္ဓဝါဒီအပေါင်းတို့သည် သင်္ကဿနဂိုရ်ပြည်ကိုအလေးအမြတ်ထားကြခြင်း ဖြစ်သည်။ တာဝတိံသာ၌ မြတ်စွာဘုရားသည် ဝါတွင်းသုံးလ တရားဟောနေစဉ် လူ့ပြည်၌ စုဝေးနေကြသော ၃၆ ယူဇနာ မျှလောက်သော ပရိသတ်တို့သည် သီတင်းကျွတ် လဆန်း ၈ ရက်နေ့သို့ ရောက်လတ်သော် ရှင်မောဂ္ဂလာန်၏ အထံသို့ ချဉ်းကပ်၍ မြတ်စွာဘုရားသည် လူ့ပြည်သို့ မည်သည့်နေ့တွင် မည်သည့်နေရာသို့ သက်ဆင်းမည့်အကြောင်း သိလိုသဖြင့် လျှောက်ထားကြလေသည်။

ရှင်မောဂ္ဂလာန်လည်း ဘုရားအထံ တာဝတိံသာ နတ်ပြည်သို့ကြွရောက်၍ အကြောင်းစုံကို လျှောက်ထားသောအခါ မြတ်စွာဘုရားသခင်က ''ချစ်သား မောဂ္ဂလာန်.... သင်၏ နောင်ကြီးဖြစ်သော သာရိပုတ္တရာသည် အဘယ်ပြည်ရွာ၌ ဝါကပ်သနည်း''ဟု မေးတော်မူ၏။ ''အရှင်ဘုရား သင်္ကဿနဂိုရ်ပြည်၌ဝါကပ်ပါသည်''ဟုလျှောက်ကြားသောအခါ''ချစ်သားမောဂ္ဂလာန်–ငါဘုရားသည်လည်း ဤနေ့မှနောက် ခုနစ်ရက်မြောက်ဖြစ်သော သီတင်းကျွတ်လပြည့်နေ့၌ သင်္ကဿနဂိုရ်ပြည်၏ အရှေ့တံခါးအနီး၌ ငါသက်တော်မူလတ္တံ့၊ ငါ့ကိုဖူးမြင်လိုသော သူတို့သည် သင်္ကဿ နဂိုရ်ပြည်သို့ လာစေကုန်၊ ဤမျှသော ခရီး၌ တစုံတယောက်သောသူအား ဆန်ရေရိက္ခာထုပ်ယူခြင်း မည်သည် မရှိစေလင့်''ဟု မှာတော်မူလိုက်၏။ ရှင်မောဂ္ဂလာန်လည်း ဘုရားသခင် မှာတော်မူတိုင်း ပရိသတ်တို့အား ကြားတော်မူ၏။

မြတ်စွာဘုရားသည် လူ့ပြည်သို့သက်အံ့သောအကြောင်းကို သိကြားမင်း သိလေသော် လကျာ ရွှေစောင်းတန်း၊ လက်ဝဲ ငွေစောင်းတန်း၊ အလယ်၌ ပတ္တမြားစောင်းတန်း အားဖြင့် စောင်းတန်းသုံးသွယ်တို့၏ အခြေသည် သင်္ကဿ

နဂိုရ်ပြည် အရှေ့တံခါးဝ၌ ချ၏။ စောင်းတန်းဦးသည် မြင့်မိုတောင်ထိပ်၌ ဖြစ်၏။ မြတ်စွာဘုရားသည် မြင့်မိုတောင်ထိပ်၌ ရပ်တော်မူ၍ နတ်ပြည်မှ သက်သော ပြာဋိဟာကို ပြုလုပ်၍ အထက်ကိုကြည့်တော်မူ၏။ ဗြဟ္မာ့ပြည်တိုင်အောင် ဟင်းလင်းတပြင်တည်း ဖြစ်၏။ တူရူဖြစ်သော အရပ်၊ ထောင့်အရပ်တို့ကို ကြည့်တော်မူသော် အသိန်းမကများစွာသော စကြဝဠာတို့သည် ဟင်းလင်းတပြင်တည်း ဖြစ်ကုန်၏။ လူတို့သည် နတ်တို့ကို မြင်ရကုန်၏။ ထိုနေ့၌ မြတ်စွာဘုရား၏ တင့်တယ်ခြင်းကို ကြည့်၍ ၃၆ ယူဇနာ အဝန်းရှိသော ပရိသတ်၌ တယောက်သောသူသည် ဘုရားဆုကို မတောင်းသူမရှိ၊ နတ်တို့က ရွှေစောင်းတန်း၊ ဗြဟ္မာတို့က ငွေစောင်းတန်း၊ ဘုရားသခင်က အလယ်ပတ္တမြားစောင်းတန်းဖြင့် သက်တော်မူ၏။ ပဥ္စသိခနတ်သားသည် ဗေလုဝစောင်းကို ပိုက်ကာ မြတ်စွာဘုရား၏ လက်ျာနံပါးမှ စောင်းဖြင့် ပူဇော်၍လိုက်၏။ မာတလိနတ်သားက လက်ျာနံပါး၌ သက်၏။ မဟာဗြဟ္မာသည် မြတ်စွာဘုရားကို ထီးမိုး၍ နောက်မှ လိုက်၏။ သုယာမနတ်သားသည် သားမြီးယပ်ကိုင်၍ ယပ်ခတ်လိုက်၏။ ယင်းသို့သော အခြံအရံဖြင့် မြတ်စွာဘုရားသည် သက်ဿနဂိုရ်ပြည် အရှေ့တံခါးဝ စောင်းတန်းရင်း၌ ရပ်တော်မူသည်။ ခပ်သိမ်းသော ဘုရားတို့သည် ယမိုက်ပြာဋိဟာ ပြုပြီးလျှင် နတ်ပြည်၌ ဝါဆိုတော်မူ၍ သက်ဿနဂိုရ်ပြည်၏ အရှေ့တံခါး၌ နတ်ပြည်မှ သက်ခြင်း၊ ထိုသက်ရာအရပ်၌ လူနတ်တို့ ကိုးကွယ်စိမ့်သော ငှာ လက်ျာခြေဖဝါးတော်အရာကို တည်စေခြင်းသည် ဘုရားတကာတို့၏ မရွေ့သောအရာတည်း။ ဘုရားသခင် သက်ဆင်းသော စောင်းတန်းကြီး သုံးခုသည် မြေသို့ ဝင်၍ လှေခါးထစ် ခုနစ်ခုသာ ကြွင်းကျန်၏။ သီရိဓမ္မာသောကမင်းကြီးသည် ထိုလှေခါး၏အဆုံးကို သိလို၍ တူးဖော်စေရာ အောက်ရေဝါတိုင်သော်လည်း အဆုံးကိုမတွေ့၍ ထိုနေရာ၌ ကျောင်းတော်ကြီး ဆောက်သည်ဟု ဆိုကြသည်။

ဘုရားသခင် သက်ဆင်း၍ ခြေတော်ချရာ ဖြစ်ဟန်တူသော နေရာတွင် သီရိဓမ္မာသောကမင်းကြီးသည် အထိမ်းအမှတ် ကျောက်တိုင် စိုက်ထူခဲ့ရာ ယခုအခါ ကျောက်တိုင်သည် ကျိုးပဲ့ပျက်စီးသွားပြီဖြစ်သဖြင့် ကျောက်တိုင်အထွတ်ဖြစ်သော ကျောက်ဆင်ရုပ်ကို ထိုနေရာ၌ တွေ့နိုင်သည်။

ကျောက်ဆင်ရုပ်နှင့် ကပ်လျက် တောင်ဖက်တွင် သီရိဓမ္မာသောကမင်း ဆောက်ခဲ့သည်ဆိုသော ကျောင်းတော်ရာတခု ရှိသည်။ ထိုဒေသ တဝိုက်တွင် ရှေးဟောင်း ဘုရားကျောင်းကန် စေတီနှင့် မြို့ရိုးပျက်များကို ခြောက်မိုင် ပတ်လည်၌ အနှံ့အပြား တွေ့ရသည်။ သက်ဿရွာမှ အဆောက်အအုံ နေအိမ်များသည် အခြားရွာမှ နေအိမ်များကဲ့သို့ မြေနှင့် ဆောက်ကြသည်မဟုတ်ပဲ ထိုဒေသ၌ အနှံ့ပျံ့နေသည့် အပျက်အစီးများမှ ကျောက်တုံး၊ ကျောက်ပြား၊ အုတ်တို့ဖြင့် ဆောက်လုပ်ထားကြသည်။

**သက်န်း။** ။ရဟန်းတို့ ဝတ်ရုံသုံးဆောင်ခြင်းငှာ အပ်သော သက်န်းသည် အမျိုးအစားအားဖြင့် ခြောက်မျိုး ရှိသည်။

ယင်းတို့မှာ (၁) ခေါမခြည်ဖြင့် ရက်သော သက်န်း၊ (၂) ဝါခြည်ဖြင့်ရက်သော သက်န်း၊ (၃) ပိုးခြည်ဖြင့်ရက်သော သက်န်း၊ (၄) လူမွေး၊ သားရဲမွေးတို့မှတပါး ကြွင်းသော သားမွေးတို့ဖြင့် ရက်သော သက္ကလတ်သက်န်း၊ (၅) ပိုက်ဆန်လျှော်ဖြင့် ရက်သော သက်န်း၊ (၆) ခေါမစသော ခြည် ငါးမျိုးဖြင့် ရော၍ ရက်သော သက်န်းတို့ ဖြစ်သည်။

ထိုပြင် (၁) ဒုကူလဟု ဆိုအပ်သော တစုံတခုသော လျှော် အထူးဖြင့် ရက်သော ဘွဲ့ဖြူသက်န်း၊ (၂) ပဏ္ဏုဏ္ဏတိုင်းဖြစ် ပိုးခြည်သက်န်း၊ (၃) သောမာရတိုင်းဖြစ် ပိုးခြည်သက်န်း၊ (၄) စိန်တိုင်းဖြစ် ပိုးခြည်သက်န်း၊ (၅) တန်ခိုးဖြင့် ဖြစ်သော သက်န်း၊ (၆) နတ်လှူသော သက်န်း၊ ဤခြောက်မျိုးသော သက်န်းတို့သည်လည်း ဖော်ပြခဲ့ပြီးသော ခေါမ စသော သက်န်းမျိုးအား လျော်သည် ဖြစ်သော ကြောင့် ရဟန်းတို့ ဝတ်ရုံသုံးဆောင်ခြင်းငှာ အပ်သော သက်န်းများ ဖြစ်ကြသည်။

ဖော်ပြခဲ့ပြီး သက်န်း ၁၂ ထည်အနက် ပဌမခြောက်ထည်ကို ဇာတိ (အမျိုးအစား) သက်န်း၊ ဒုတိယခြောက်ထည်ကို အနုလောမ (အလျော်) သက်န်းဟု ခေါ်ဆိုကြသည်။

အနုလောမ သက်န်း ခြောက်ထည်တွင် ဘွဲ့ဖြူ သက်န်းသည် ပိုက်ဆန်လျှော်သက်န်းအား လျော်သည်။ ပဏ္ဏုဏ္ဏ၊ သောမာရ၊ စိန ဤသုံးထည်သော သက်န်းသည် ပိုးခြည်သက်န်းအား လျော်သည်။ တန်ခိုးဖြင့်ဖြစ်သော သက်န်း၊ နတ်လှူသော သက်န်း၊ ဤသက်န်းနှစ်ထည်သည် ခေါမ စသော သက်န်းခြောက်မျိုးအား လျော်သည်။

စီဝရ(သက်န်း)ဟူသော အမည်သည် သင်းပိုင်၊ ကေသီ၊ နှစ်ထပ်သက်န်းကြီး၊ ဤသုံးထည်၏ အမည်သာ မဟုတ်၊ ရဟန်း အသုံးအဆောင် အဝတ်အထည်မှန်သမျှ စီဝရ မည်သည်သာ ဖြစ်၏။

အဓိဋ္ဌာန် (မြဲစွဲစွာဆောက်တည်ခြင်း)ဟု ဆိုအပ်သော ဝိနည်းမှု၊ သို့မဟုတ် ဝိကပ္ပနာ(မိမိဥစ္စာအဖြစ်မှ ကင်းအောင်ပြုခြင်း)ဟုဆိုအပ်သော ဝိနည်းမှုတခုခုပြုလုပ်၍ သုံးဆောင်ဝတ်ရုံရသော သက်န်းသည် အရှယ်ပမာဏအားဖြင့် ကိုးထည်ရှိသည်။ ယင်းတို့မှာ (၁) အိပ်ရာခင်း၊ (၂) မျက်နှာသုတ်ပုဝါ၊ (၃) ပရိက္ခာရစောဠ(ထိုထိုကိစ္စ၌ သုံးစွဲရန် ပိတ်စ၊ ဖျင်စ စသောအဝတ်)၊ (၄) နိသီဒိုင်၊ (၅) အမာလွှမ်းသက်န်း၊ (၆)မိုးရေခံသက်န်း၊ (၇)သင်းပိုင်၊ (၈)ကေသီ၊ (၉)နှစ်ထပ်သက်န်းကြီးတို့ ဖြစ်ကြသည်။

သင်္ကန်းကိုးထည်အနက် (၁)အိပ်ရာခင်း၊ (၂)မျက်နှာသုတ်ပုဝါ၊ (၃) ပရိက္ခာရစောဠ၊ ဤသုံးထည်တို့၌ အကြီးဆုံးအရွယ်ပမာဏသည် မည်မျှ ရှိရမည်ဟု သတ်မှတ်ချက်မရှိ။ အသေးဆုံးမှုကား လက်သမားတောင်(ကိုက်တောင်) အားဖြင့် အလျားတတောင်၊ အနံတထွာရှိရသည်။ သို့မှသာ အဓိဋ္ဌာန်၊ ဝိကပ္ပနာလောက်သည်။ အရေအတွက်အားဖြင့် အိပ်ရာခင်းသည် တထည်သာ အပ်သည်။ မျက်နှာသုတ်ပုဝါသည် နှစ်ထည် အပ်သည်။ အပရေဝါဒအားဖြင့် အထည်များစွာ အပ်သည်ဟု ဆိုသည်။ ပရိက္ခာရစောဠသည် အရေအတွက် အကန့်အသတ်မရှိ၊ အပ်သည်။

(၄) နိသီဒိုင်၊ ရဟန်းတို့သည် မွန်မြတ်သော ဘောဇဉ်အာဟာရတို့ကို သုံးဆောင်ကြပြီးနောက် သတိသမ္ပဇဉ်ကင်းလျက် အိပ်ပျော်ကြသည့်အခါ အိပ်မက်မက်၍ သုက်လွတ်သဖြင့် ကိုယ်ခန္ဓာ၊ သင်္ကန်း၊ ကျောင်း၊ အိပ်ရာနေရာတို့ကို သုက်အညစ်အကြေးများဖြင့် လူးပေ လိမ်းကျံမိကြသည်။ ယင်းကို မြတ်စွာဘုရားမြင်တော်မူ၍ ကိုယ်ကိုစောင့်ရှောက်စေခြင်း၊ သင်္ကန်းကို စောင့်ရှောက်စေခြင်း၊ ကျောင်း အိပ်ရာ နေရာကို စောင့်ရှောက်စေခြင်းငှာ နိသီဒိုင်ကို ခွင့်ပြုတော်မူသည်။

နိသီဒိုင်ကို အိပ်ရာခင်း၊ အိပ်ရာလွှမ်းကဲ့သို့ ခင်း၍လည်း ထိုင်နိုင်၊ အိပ်နိုင်သည်။ ဆွမ်းစားသည့်အခါ ဆွမ်းဟင်းစက်များ မပေမကျံစေရန် တပိုင်းကို ခင်း၍ အမြိတ်အဆာတို့ကို တင်ပလ္လင်ပေါ်၌ တင်ကာ အသုံးပြုကြသည်။

အထူးအားဖြင့် သင်းပိုင်အတွင်း ရှေ့တည့်တည့်ကခံ၍ ဝတ်ဖို့ရန် ဖြစ်သည်။ ဝတ်သည့်အခါ ရှေ့ဖက်က ခံဝတ်လျှင် အလယ်က အမြိတ်စကို နောက်သို့ ခါးတောင်းကျိုက်သကဲ့သို့ရင်း၊ နောက်ဖက်က ခံဝတ်လျှင် ယင်းအလယ်မြိတ်စကို ပေါင်ကြားမှရှေ့သို့ယူ၍ ကြိုးငယ်ဖြင့် ချည်ကာ ဝတ်ရသည်။

နိသီဒိုင်၏ အကြီးဆုံး အရွယ်ပမာဏမှာ မြတ်စွာဘုရား၏ အထွာတော်ဖြင့် အလျား နှစ်ထွာ၊ အနံတထွာခွဲ၊အမြိတ်အဆာ တထွာရှိရမည်ဟု သတ်မှတ်ချက်ရှိသည်။

မြတ်စွာဘုရား၏ အထွာသည် “ရှင်စေ တထွာ၊ မဇ်သုံးထွာ” ဟုဆိုသည့်အတိုင်း မဇ္ဈိမပုရိသ လူလတ်တန်းစား၏ သုံးထွာနှင့် ညီမျှသည်။ မဇ္ဈိမပုရိသ၏ အထွာ တတောင်သည် လက်သမား တို့၏ အထွာ၊ အတောင် (ကိုက်ထွာ၊ ကိုက်တောင်)နှင့် တူညီသည်။

နိသီဒိုင်သင်္ကန်းသည် ဆရာတော်ဦးဗုဓ်ခေတ်ကပင် သုံးစွဲရိုး အစဉ်အလာ ကင်းပြတ်ဟန်ရှိသည်။ ဆရာတော်သည် ခုဒ္ဒသိက္ခာနိဿယတွင် ဤနိသီဒနကား ယခုပြုလုပ်ရိုး သုံးဆောင်ရိုး ပြတ်လေပြီဟု မှာတော်မူသည်။

(၅) အမာလွှမ်း သင်္ကန်း၊ ခါးနှင့် ဒူးဆစ် အကြား၌ ယားနာ၊ ဝဲနာ၊ သွေးစုနာ စသော အရည်ထွက်သည့် အနာများပေါက်လျှင် သင်းပိုင်ကို ပေကျံမည် စိုးသောကြောင့် ထိုအနာများကို ဖုံးလွှမ်းကာကွယ်ဖို့ရန် သုံးဆောင်ခွင့်ပြုသော သင်္ကန်းမျိုး ဖြစ်သည်။

အမာလွှမ်းသင်္ကန်း၏ အကြီးဆုံး အရွယ် ပမာဏမှာ မြတ်စွာဘုရား အထွာတော်ဖြင့် အလျားလေးထွာ၊ အနံ နှစ်ထွာရှိရသည်။

(၆) မိုးရေခံသင်္ကန်း၊မိုးအခါ၌ ဝဿိကသာဋိကာ ဟူသော အမည်ဖြင့် အဓိဋ္ဌာန်တင်၍ အခြားကာလ၌ ဝိကပ္ပနာပြု၍ဖြစ်စေ၊ ပရိက္ခာရစောဠ (အသုံးအဆောင်အဝတ်) အဓိဋ္ဌာန်တင်၍ဖြစ်စေ ဆောင်အပ်သော သင်္ကန်းကို မိုးရေခံသင်္ကန်းဟု ခေါ်သည်။ ယင်းကို မိုးရွာသည့်အခါ ဝတ်၍ (ရေသနုပ်ကဲ့သို့ အသုံးချ၍)မိုးရေကို ခံခြင်း၊ ချိုးခြင်းဖြင့် အသုံးပြုရသည်။

မိုးရေခံသင်္ကန်း၏ အကြီးဆုံး အရွယ်ပမာဏမှာ ကိုက်တောင်ဖြင့် အလျားကိုးတောင်၊ အနံခုနစ်တောင်ရှိရသည်။ ယင်းကို သင်္ကန်းဟု ဆိုသော်လည်း သင်္ကန်းရောင်ထွက်အောင် ဆိုးမှ အပ်သည်မဟုတ်။ အဆင်းပျက်ရုံ ဆိုးကာမျှဖြင့် အပ်သည်။

(၇) သင်းပိုင် (၈) ဧကသီ (၉) နှစ်ထပ်သင်္ကန်းကြီး၊ ဤသင်္ကန်းသုံးထည်ကို တိစီဝရိက်သင်္ကန်းဟု ခေါ်သည်။ တိစီဝရိက်သင်္ကန်းကို ရဟန်းတို့ ဝတ်ရုံသုံးဆောင်ရန် ဘုရားသခင် ခွင့်မပြုမီ ရှေးအခါက ရဟန်းတို့သည် ပံသုကူသင်္ကန်းများကိုသာ ဝတ်ရုံသုံးဆောင်ကြသည်။ ရဟန်းတို့အား လူဒါယကာတို့ လှူဒါန်းသည့် သင်္ကန်းကို ဝတ်ရုံသုံးဆောင်ခွင့်




နှစ်ထွာရှိသော အလျား၌ အဆာတပ်၍
နိသီဒိုင် ချုပ်ပုံ

ပြုရန် ဆရာဇီဝကက လျှောက်ထား တောင်းပန်ရသည်။ ထိုအခါမှ ရဟန်းတို့သည် ပံသုကူသင်္ကန်းကိုင်း၊လူဒါယကာတို့ လှူဒါန်းသော သင်္ကန်းကိုင်း ဝတ်ရုံသုံးဆောင်ကြသည်။ သို့ရာတွင် ထိုစဉ်က စံနစ်တကျ ဖြတ်ချုပ်၍ ဝတ်ရုံသုံးဆောင်ကြသည် မဟုတ်သေးပေ။

**စံနစ်တကျ ချုပ်ခြင်း။** ။အခါတပါးတွင် မြတ်စွာဘုရားသည် ရာဇဂြိုဟ်မြို့မှ ဒက္ခိဏာဂိရိ ဇနပုဒ်သို့ ဒေသစာရီ ကြွချီတော်မူသည်။ လမ်းခရီးအကြားတွင် လေးထောင့်လယ်ကန်သင်းဖွဲ့သော အလျားမှုရင်း၊ အနံမှုရင်း ရှည်စွာ လယ်ကန်သင်း ထုတ်ချင်းထွင်း၍ ခရီးလေးဆုံကဲ့သို့ လယ်ကန်သင်းဖွဲ့သော မဂဓတိုင်းသားတို့၏လယ်ကွင်းကို မြင်တော်မူသည်။ ထိုအခါ မြတ်စွာဘုရားက အရှင်အာနန္ဒာအား လယ်ကွင်းပုံစံနည်းပေး၍ ချုပ်လုပ်စီရင်စေတော်မူသည်။

အရှင်အာနန္ဒာသည် မြတ်စွာဘုရား ခိုင်းစေတော်မူချက်အရ ရဟန်းများ ဝတ်ရုံသုံးဆောင်ရန်အတွက် မြောင်းရှည်၊မြောင်းတို၊ အိမ်ဝန်းကြီး၊ အိမ်ဝန်းငယ်၊ အလယ်ခေါင်၊ ခေါင်ရံ၊ အနားပတ်တို့ကို ဖြတ်သင့်သည်ကို ဖြတ်၊ စပ်သင့်သည်ကိုစပ်၍ စံနစ်တကျချုပ်လုပ်စီရင်လေသည်။ထိုအချိန်မှစ၍ မြောင်း၊အိမ်စသည်ဖြင့် ဖွဲ့ချုပ်သော သင်္ကန်းကို ရဟန်းတို့ ဝတ်ရုံသုံးဆောင်ကြသည်။

ရဟန်းတို့သည် စံနစ်တကျ ဖွဲ့ချုပ်သော သင်္ကန်းကို ဝတ်ရုံခွင့်ရပြီးသည့် နောက်ပိုင်း၌ အထည် အရေအတွက် ကန့်သတ်ချက် မရှိသေးသည် ဖြစ်ရကား ရရှိသမျှ သင်္ကန်းများကို ဆောင်ကြ၊ ဝတ်ကြသည်။ သို့ဖြစ်၍ မြတ်စွာဘုရားသည် ဝေသာလီပြည် ဂေါတမကမည်သော စေတီ''ပဉ္စောင်ပင်''၌ သီတင်းသုံးနေတော်မူစဉ် ချမ်းအေးသော ဆောင်းဥတုအခါဖြစ်သည့် တပို့တွဲ၊ တပေါင်း နှစ်လတို့၏ အကြားဖြစ်သော ရှစ်ညဥ့်တို့၌ ဆီးနှင်းကျသည့် ညဥ့်အခါဝယ် လွင်တီးခေါင်၌ ပဌမအကြိမ်တထည်တည်းခြုံရုံလျက်ငင်း၊ ဒုတိယအကြိမ်နှစ်ထည်ခြုံရုံလျက်ငင်း၊ တတိယအကြိမ်သုံးထည်ခြုံရုံလျက်ငင်း၊ စတုတ္ထအကြိမ် လေးထည်ခြုံရုံလျက်ငင်း ဆောင်းဥတုအအေးဒဏ်ကို ကိုယ်တော်တိုင် စမ်းသပ်တော် မူသည်။ ထိုနောက် ချမ်းတတ်သော ရဟန်းတို့အတွက် သင်္ကန်း သုံးထည် (လေးထပ်)ရှိလျှင် မျှတနိုင်ပြီဟု အကြံဖြစ်ကာ နှစ်ထပ်သော သင်္ကန်းကြီး၊ တထပ်သော ကောသီ၊ တထပ်သော သင်းပိုင် ဤ သင်္ကန်းသုံးထည် (တိစီဝရိက်) တို့ကို ခွင့်ပြုတော်မူသည်။

သင်္ကန်းသုံးထည်အနက် သင်းပိုင်၏ အရှယ်ပမာဏမှာ (အငယ်ဆုံး) အလျား ငါးတောင်ဆုပ်၊ အနံ နှစ်တောင်ထွာ၊ သို့မဟုတ် နှစ်တောင်၊ ကောသီနှင့် သင်္ကန်းကြီး၏ အရှယ်ပမာဏမှာ အလျား ငါးတောင်ဆုပ်၊ အနံ သုံးတောင်ဆုပ် ရှိရသည်။

ဤပြဆိုခဲ့ပြီး အတိုင်းအထွာများမှာ သင်္ကန်းပိုင်ရှင်၏ အတိုင်းအထွာများ ဖြစ်သည်။ တောင်ဆုပ် ဟူရာ၌ လေးတောင်ကို အပြည့်တောင်၍ နောက်ဆုံး အတောင်ကိုသာ လက်သီးဆုပ်၍ တောင်ရသည် ဟူ၍ငင်း၊ အတောင်အားလုံးကိုပင် လက်သီးဆုပ်၍ တောင်ရသည် ဟူ၍ငင်း အယူအဆ နှစ်မျိုးရှိသည်။

အကြီးဆုံး အရှယ်ပမာဏမှာ ဘုရားရှင်၏ သင်္ကန်းတော်ပမာဏအောက် လျော့စေရသည်။

ဘုရားရှင်၏ သင်္ကန်းတော် အရှယ်ပမာဏမှာ ဘုရားအတိုင်းအထွာတော်ဖြင့် အလျားလေးတောင်ထွာ၊ အနံ သုံးတောင် ရှိသည်။

**အခန်း။** ။သင်္ကန်းချုပ်ရာ၌ ''ငါးခန်းသော်ငင်း၊ ငါးခန်းထက်အလွန်သော်ငင်း ကောင်းစွာ ဖြတ်တောက်၍ အိမ်ဝန်းကြီး၊ အိမ်ဝန်းငယ်ဖွဲ့ကာ ချုပ်ရသည်''ဟု ဝိနည်းမဟာဝါပါဠိတော်တွင်လာသည်။ ထိုကြောင့် ကြီးသောအနံရှိသောအဝတ်ကို မဖြတ်ပဲ ချုပ်ရိုးချုပ်ကြောင်းသာပြ၍ မချုပ်ရ။ နှစ်ခန်း၊ သုံးခန်း၊ လေးခန်း ဖွဲ့သဖြင့်လည်း မချုပ်ရ။ ငါးခန်း၊ငါးခန်းထက်အလွန်ဖွဲ့ကာ တလုပ်မြောင်းငယ်စသည်တို့၌ ဖြတ်၍ ချုပ်ရသည်။ မူရင်းပါဠိတော်၌ ငါးခန်း၊ငါးခန်းထက် အလွန်ဟုလာသည်။ အဋ္ဌကထာ၌ ငါးခန်း၊ ခုနစ်ခန်း၊



ငါးခန်းသင်္ကန်း ချုပ်နည်းကို ဝိနယ သမူဟ ဝိနိစ္ဆယကျမ်း၌ ဤသို့ ပြထားသည်။

ကိုးခန်း၊ ၁၁ ခန်းဟုပြသည်။ယောဇနာဦကား ဝါသဒ္ဒါဖြင့် ၁၁ ခန်းထက်အလွန် ၁၃ ခန်း စသည်ကိုလည်း ချုပ်နိုင်ကြောင်း ပြဆိုထားသည်။

**ဆိုးရည်။** ။သက်န်း ဆိုးရာ၌ အပ်သော ဆိုးရည်တို့မှာ (၁) နနွင်းဥမှ တပါး အမြစ်ဆိုးရည်အားလုံး၊ (၂) ထန်းကျင့်၊ ပိန်းနဲနွယ်တို့မှ တပါး ပင်စည်ဆိုးရည်အားလုံး၊ (၃) မဲရွက်၊ ဒန်းရွက်တို့မှ တပါး အရွက်ဆိုးရည်အားလုံး၊ (၄) တောက်ရပ်၊ကြာပိုင်ခေါက်တို့မှ တပါး အခေါက်ဆိုးရည်အားလုံး(၅) ဝတ်ပန်းပွင့်၊ ပေါက်ပွင့်တို့မှတပါး အပွင့်ဆိုးရည်အားလုံး၊ (၆) အသီးဆိုးရည်အားလုံး ဤဆိုးရည်များသည် အပ်သော ဆိုးရည်များ ဖြစ်ကြသည်။

**သက်န်းပင်။** ။အာရှတိုက် အပူပိုင်း ဒေသပေါက် အမြဲစိမ်းတောနှင့် စွတ်စိုသောတောများတွင် ပေါက်ရောက်သည့် သက်န်းပင်သည် မြန်မာနိုင်ငံအတွင်း၊ အထူးသဖြင့် ထားဝယ်နှင့် မြိတ်ခရိုင် သစ်တောများတွင် အမြောက်အမြား ပေါက်ရောက်သည်။ ပျဉ်းမနား ခရိုင်သည် သက်န်းပင် ပေါက်ရောက်ရာ ဒေသတို့တွင် မြောက်ဖက်အကျဆုံး နယ်ဖြစ်လေသည်။

သက်န်းပင်နှင့် ဆင်တူယိုးမှား အပင်များစွာ ရှိရာ ရုက္ခဗေဒ အမည်အားဖြင့် ဟိုပီယာ အော်ဒိုရေတာ ခေါ် သက်န်းပင်နှင့် ဟိုပီယာ မိုင်နျုတီဖလော်ရာ ခေါ် သက်န်းမကလေးပင်းတို့သည် သက်န်းပင် စစ်စစ် နှစ်မျိုးဖြစ်သည်။ ယင်းတို့သည် ကညင်၊ ကောင်းမှု၊ သစ်ယာ၊ အင်၊ အင်ကြင်းတို့နှင့် မျိုးရင်းတူ ဖြစ်၍ ဒစ်ပတာရိုကာပေစီအီး မျိုး ရင်းတွင် ပါဝင်သည်။ မြင့်မားစွာ ပေါက်ရောက်နိုင်သော တောသစ်ပင်ကြီးမျိုး ဖြစ်သည်။ ပင်စည်၏ အညိုရောင် သန်းသော အနက်ရောင် အပေွးတွင် အက်ကြောင်းငယ်များရှိသည်။ အဖျားသို့ တဖြည်းဖြည်း ရှူးသွားသော အရွက်မျိုးရှိ၍ အရွက်ကြောများ၏ အရင်းထောင့်၌ မှဲ့ကလေးများ ရံဖန်ရံခါ ပါရှိတတ်သည်။ အပွင့်ဖြူဖြူကလေးများ တဖက်သတ်တည်း ထွက်သော ပန်းခက်မျိုး ပွင့်သည်။ ပွင့်ဖတ်နှင့် ပွင့်ချပ် ငါးခုစီ ရှိသည်။ ပွင့်ဖတ်သည် အနားတဖက် လိပ်ဝင်နေသည်။ ပွင့်ချပ်တို့သည် ပူးတွဲ အသီး သီးသောအခါ အသီးနှင့်အတူ ပူးတွဲ ထွားကြိုင်း လာသည်။ အသီးတွင် အတောင်ကဲ့သို့ အင်္ဂါ နှစ်ခု ပါလေသည်။

သက်န်းပင်၏ အသားရောင်သည် ညိုသည်။ သက်န်းသားသည် ချောမွတ်ကျစ်လျစ်သည်။ တခါတရံ အပေါ်ယံ၌ အက်ကွဲတတ်သော်လည်း အသားသေအောင် ပြုလုပ်ရန် လွယ်ကူသည်။ ကုဗ တပေလျှင် ၄၇ ပေါင်အလေးချိန် စီး၍ အတော်အသင့် လေးလံပြီးလျှင် အတော်အသင့် မာကျော၍ ခြမစားနိုင်သဖြင့် ကျွန်းသစ်၏ အရည်အသွေးနှင့် ဆင်ဆင်တူသည်။ သို့သော် ကျွန်းသစ်ထက် ဈေးပေါပြီးလျှင် ပျဉ်းကတိုးလောက် ခွဲဖြတ်စိတ်ဖြာရန် မခဲယဉ်းသဖြင့် ခိုင်မာမှု လိုအပ်သော တန်တားဆောက်ခြင်း၊လှေဆောက်ခြင်း၊ ဇလီဖားတုံးပြုလုပ်ခြင်း စသော လုပ်ငန်းများ အတွက် အသုံးကျသည်။ထိုပြင်လှည်းများ၊ရွက်တိုင်များ၊အိမ်ထောင်ပရိဘောဂ ပစ္စည်းများ ပြုလုပ်ရန် အသုံးများသော သစ်မျိုးဖြစ်သည်။ သက်န်းသားဖြင့် ဆောက်လုပ်သော လှေသည် အနှစ် ၂၀ ကျော်ခန့် အထိ ခိုင်ခန့်နေသည်ကို တွေ့ရသည်။ သက်န်းသားသည် အပြစ်အနာလည်း ကင်းသဖြင့် ယခု



လှည်းများ ရွက်တိုင်များ အိမ်ထောင်ပရိဘောဂများစသည် ပြုလုပ်ရသော သက်န်းပင်

ခေတ်တွင် အထူးသဖြင့် ပါကစ္စတန်နိုင်ငံ၌ မီးရထား ဇလီဖားတုံးများအတွက် အများဆုံး အသုံးပြုလျက်ရှိသည်။

မြင်ရုံကာမျှဖြင့် သက်န်းပင်နှင့် ခွဲခြားရန် ခဲယဉ်းသော အခြားသစ်ပင်တို့မှာ သက်ဒူး (သက်န်းတူ)နှင့် ပန်းသစ်ယာ စသည်တို့ ဖြစ်ကြသည်။ သက်န်းသားနှင့် အခြားဆင်တူယိုးမှား သစ်များကို ခွဲခြားသိနိုင်ရန်မှာ သက်န်းသားအစစ်ပေါ်တွင် မြေဖြူဖြင့်ရေးခြစ်လိုက်လျှင် မြေဖြူမှတ်သည် မိနစ်ပိုင်းအတွင်း အနီရောင်ပြောင်းသွားသည်။ သက်ဒူးစသော အခြားသစ်များပေါ်တွင်မူ မြေဖြူမှတ်သည် အဖြူအတိုင်းပင် ရှိနေလေသည်။

သက်န်းပင်မှ သစ်ဆီတမျိုးကိုလည်း ထုတ်ယူရရှိနိုင်သည်။ ထိုသစ်ဆီကို ဆေးဝါးများ၌ ထည့်ရန်ငှင်း၊ အရောင်တင်ဆီအဖြစ်ငှင်း အသုံးပြုကြသည်။ သစ်ဆီထုတ်ယူရရှိနိုင်သော အကောင်းဆုံး အချိန်မှာ နွေရာသီ ဖြစ်သည်။ တနင်္သာရီနယ်မှ ထုတ်ယူရရှိသော သစ်ဆီများကို မော်လမြိုင်သို့ တင်ပို့ကြသည်။

သက်န်းပင်ကို အချို့က သစ်ဆင်ကနန်း ဟုလည်း ခေါ်ဆိုကြလေသည်။

သက်န်းနက် ဟူ၍ငှင်း၊ သက်န်းကျောက် ဟူ၍ငှင်း ခေါ်ဆို၍ သက်န်းပင်မျိုးတွင်ပါဝင်သော အပင်မျိုး ရှိသေးသည်။ ရုက္ခဗေဒ အမည်အားဖြင့် ဟိုပီယာ ဟယ်ဖာရီဟုခေါ်သည်။ ပေ ၈၀ ကျော်ခန့်အထိ မြင့်မားနိုင်ပြီးလျှင် လုံးပတ် ခုနစ်ပေ ရှိသည်။ အသားသည် အလွန်မာကျောသဖြင့် သက်န်းကျောက်ဟု ခေါ်ဆိုကြဟန် တူပေသည်။ ဒေါနတောင်တန်းနှင့် တနင်္သာရီရိုးမတို့၌ ပေါက်ရောက်သည်။ ထိုအပင်မျိုးမှ သစ်ဆီကြည်တမျိုးကို ထုတ်ယူရရှိနိုင်လေသည်။

# နှစ်ဟောင်းမှနှစ်သစ်သို့

**တနှစ်ဟူသော ကာလအပိုင်းအခြား၊ မြန်မာလူမျိုးတို့၏ သင်္ကြန်နှင့် ဟိန္ဒူအယူဝါဒ၊ သင်္ကြန် အကျ၊ အတက် တွက်ချက်နည်း၊ သင်္ကြန်ကျပြီးဖြစ်သော်လည်း နှစ်သစ်သို့ ချက်ခြင်း မကူးသေးသည်မှာ အဘယ့်ကြောင့်နည်း၊ အတာပြည့်နှစ်ဟူသည် အဘယ်နည်း။**

**သင်္ကြန်။** ။သင်္ကြန်သည် သင်္ကန္တဟူသော ပါဠိပုဒ်မှ လာသည့် သင်္ကတ ရရစ်သံနှင့် သင်္ကြန် ဟူသော မြန်မာစကား ဖြစ်ပေါ်လာခြင်း ဖြစ်သည်။ သင်္ကန္တ၏အနက်မှာ ကူးပြောင်းခြင်း၊ တနေရာမှ တနေရာသို့ ရောက်ရှိခြင်း ဟူ၍ ဖြစ်သည်။ မြန်မာလူမျိုးတို့၏ ကျင်းပမြဲဖြစ်သော ဆဲ့နှစ်ရာသီ ပွဲတော်များတွင် သင်္ကြန်ရေသဘင်ပွဲတော်သည် အလွန်ကြီးကျယ်စည်ကားသော အမျိုးသားပွဲတော်တခု ဖြစ်သည်။ ဤသင်္ကြန်ရေသဘင်ပွဲတော်သည် မည်သည့် လူမျိုးတို့၏ ယဉ်ကျေးမှုမှ ဆင်းသက်လာသနည်း။ အဘယ်ကြောင့် သင်္ကြန်ကျချိန်-တက်ချိန်ဟုဖြစ်လာသနည်း စသော အချက်အလက်များကို ဖြေဆိုရန် သူရိယသိဒ္ဓန္တကျမ်း၊ သံဒိဋ္ဌကျမ်း စသော ဗေဒင်တွက်ရိုးကျမ်းများကို လေ့လာရန် လိုပေသည်။

နိုင်ငံ၏ အဓိကကိုးကွယ်သော ဗုဒ္ဓအယူဝါဒနှင့် တကွ အခြားသော ယဉ်ကျေးမှု ဓလေ့ထုံးစံတို့သည်လည်း ဟိန္ဒူအယူဝါဒနှင့် ယဉ်ကျေးမှု ဓလေ့ထုံးစံတို့နှင့် ရောထွေးကာ မြန်မာနိုင်ငံဖက်သို့ ရောက်ခဲ့ကြသည်။ ဤတွင် ဗေဒင်ပညာရှိ ပုဏ္ဏားတို့သည် မြန်မာဘုရင်များ လက်အောက်တွင် ဝင်ရောက်အမှုထမ်း၍ သင်္ကြန်တွက်ရိုးကျမ်း၊ ဝေဒင်္ဂကျမ်း၊ အသီတိဓာတ်ကျမ်း စသည်တို့ဖြင့် မဟာသင်္ကြန်စာများ ထုတ်ကာ စီးပွားရှာခဲ့ကြ၏။ သင်္ကြန်၊ သင်္ကြန်စာ စသော အကြောင်းများနှင့် စပ်လျဉ်း၍လည်း သိကြားမင်းနှင့် ဗြဟ္မာမင်းတို့ အချင်းဖြစ်ပွား၍ ကပ်ကိုးဆယ်မိုင်းဆရာထံ အဆုံးအဖြတ် ဝင်သည့်အခါ ဗြဟ္မာမင်း ရှုံးသဖြင့် သိကြားမင်းက ဗြဟ္မာမင်း ဦးခေါင်းကို ဖြတ်၍ နတ်သမီး ခုနစ်ဖော်အား အလှည့်ကျ ကိုင်ဆောင်စေသည့် အကြောင်းများ ပါရှိသော သင်္ကြန်သမိုင်းများကို ကြံဖန်ပြုလုပ်ခဲ့သည့်အပြင်၊ သင်္ကြန်စာကိုတည်၍ ခုနစ်ခု စား၊ ရှစ်ခုစား၊ ၁၂ ခုစား သင်္ကြန်ဟောကိန်းများလည်း တီထွင်ခဲ့ကြသည်။ (သင်္ကြန်စာ—လည်းရှု။)

ဘုရား ပိဋကတ်တော်၌ သင်္ကြန်ကျခြင်း၊ တက်ခြင်း၊ အကြောင်းများ မပါချေ။ သီတင်းကျွတ်၊ တန်ဆောင်မုန်းလများ၌ ကျင်းပလေ့ရှိသော နက္ခတ်ပွဲသဘင်များအကြောင်းသာ ဖော်ပြထားလေသည်။ သို့သော် ကမ္ဘာပေါ်ရှိ လူမျိုးတို့သည် မိမိတို့၏ ဓလေ့ထုံးတမ်း အစဉ်အလာများအရ နှစ်ဆန်းရက်များ သတ်မှတ်ရပေမည်။ သိုးဆောင်းလူမျိုးများနှင့် ယင်းတို့၏အယူဝါဒကို ကျင့်သုံးသော လူမျိုးအပေါင်းတို့သည် ဇန္နဝါရီလ တရက် နှစ်ဆန်းရက် ဖြစ်၍ ဒီဇင်ဘာလ ၃၁ ရက် ညဥ့်သန်းခေါင်မတိုင်မီ အခါက နှစ်သစ်ကူး ရက်ကြို ပျော်ရွှင်ပွဲများ ကျင်းပကြ၏။ အချို့လည်း ဘုရား ကျောင်းများတွင် နှစ်ကူးချိန်အခါ၌ ဆုတောင်းမေတ္တာများ ပို့ကြ၏။ ဤသည်လည်း သိုးဆောင်း နှစ်ကူးသင်္ကြန်ပွဲဟု ခေါ်ဆိုနိုင်သည်။ တရုပ်လူမျိုးများလည်း နှစ်သစ်ကူးမင်္ဂလာတော်ကို ဖေဖော်ဝါရီလ အတွင်း အကြီးအကျယ် ကျင်းပသကဲ့သို့ဟိန္ဒူ-ဗင်္ဂါလီလူမျိုးတို့လည်း မတ်လအတွင်း မိမိတို့ လူမျိုးအချင်းချင်း ဆေးနီရေများဖြင့် မေတ္တာ ရေစင်များ လောင်းကစားကြ၍ နှစ်ကူးသင်္ကြန်ပွဲတော်များ ပျော်ရွှင်စွာ ကျင်းပကြ၏။ (နှစ်ဆန်းတရက်နေ့—လည်းရှု။)

မြန်မာလူမျိုးတို့၏နှစ်ကူးသင်္ကြန်ပွဲသည်လည်းဟိန္ဒူအယူဝါဒမှ သက်ဆင်းသော ဓလေ့အတိုင်း ရှေးယခင်ကာလများ၌ မိဖဆရာသမားများနှင့် သက်ကြီးဝါကြီးများကို သနပ်ခါး နံ့သာရေများ၊ သပြေခက်ကလေးများဖြင့် ကန်တော့ကြသည့် အလေ့အထ ရှိခဲ့ကြသည်။ သို့ရာတွင် ယခုခေတ်၌ တဦးနှင့်တဦး၊ တဖွဲ့နှင့်တဖွဲ့ အလွန်အကျူး အပြန်အလှန် ရေကစားမှုများ၊ အားကစားစိတ်ဓာတ် သဘောမျိုးဖြင့် အပြိုင်အဆိုင် စကားနိုင် သံချပ်များနှင့် ပျော်ရွှင်ပွဲသဖွယ် ဆင်နွှဲမှုများ ဖြစ်ခဲ့လေသည်။

ပုဂံခေတ် နရသီဟပတေ့မင်း လက်ထက် မိဖုရားစောလုံအား ရေပက်ကစားရာ အကျီစား လွန်သဖြင့် စောလုံ စိတ်ဆိုးကာ ဘုရင့်အပေါ် သေကြောင်း ကြံသောကြောင့် နောက်ဆုံး စောလုံအသတ်ခံရသည် ဟူသော ဖြစ်ရပ်အရ သင်္ကြန်ရေကစားသည့်အလေ့သည် ပုဂံခေတ်ကပင် ရှိခဲ့ပြီဟု မှတ်ယူဖွယ်ရှိသည်။

အတာသင်္ကြန် တကြိမ်မှ နောက်တကြိမ် ကာလသည် တနှစ် အပိုင်းအခြား ကာလ ဖြစ်သည်။ စကြဝဠာအတွင်းရှိ ဂြိုဟ်နက္ခတ်တာရာများတွင် အပါအဝင်ဖြစ်သည့် ကျွန်ုပ်တို့၏ ကမ္ဘာမြေကြီးသည် သူရိယနေမင်းကို ဗဟိုပြု၍ လှည့်လည်သွားသည့်အခါ တပတ်မြောက် ကာလသည် တနှစ်အပိုင်းအခြားကာလ ဖြစ်သည်။ ယင်း ကာလအပိုင်းအခြားသည် ၃၆၅ ရက် ၆ နာရီ ၁၂ မိနစ် ၃၇ စက္ကန့် ဖြစ်၏။ ဤသင်္ချာကိန်းသည် သူရိယသိဒ္ဓန္တကျမ်းတွင် ဖော်ပြချက် စတုယုဂ်နှစ်ပေါင်း ၄,၃၂၀,၀၀၀ တွင် သာဝနရက်ပေါင်း ၁,၅၇၇,၉၁၇,၈၂၈ မှ တွက်ရသော အချိန် ကာလ ဖြစ်၏။ အနောက်နိုင်ငံ ခေတ်သစ် နက္ခတ်ပညာ ကျမ်းများအရ "ရာသီနှစ်" တနှစ်လျှင် ၃၆၅ ရက် ၅ နာရီ ၄၉ မိနစ် ၄၆ စက္ကန့် ဖြစ်၏။

ယင်းကဲ့သို့ လှည့်လည်ရာ နေသွားလမ်း စက်ဝိုင်းတွင် ရာသီ ၁၂ ပိုင်းပိုင်းခြား၍ ပဌမ မိဿရာသီ အစ သုညအံသာသည် အဿဝဏီ နက္ခတ်နှင့် တနင်္ဂနွေ ရဝိ ဖုဋ္ဌဂြိုဟ် ယှဉ်သည့်အချိန်တွင် အတာသင်္ကြန်ကျ၏။ အိန္ဒိယလူမျိုးတို့သည် ဤအချိန်အခါမှစ၍ နှစ်သစ်ဆန်းချိန် ယူလေသည်။

ဗေဒင်တွက်ရိုးကျမ်းများတွင် ရဝိ မဇ္ဈဂြိုဟ်သွမ်းနှင့် ရဝိ ဖုဋ္ဌဂြိုဟ်စင် ဟူ၍ တနင်္ဂနွေဂြိုဟ် နေမင်း၏ သွားလမ်းကို ဌာနအားလျော်စွာ ခွဲခြား၍ခေါ်ဝေါ်ကြ၏။ သူရိယသိဒ္ဓန္တကျမ်းများကို ကျွမ်းကျင်သူတို့သာလျှင် ခွဲခြားသိနိုင်၏။ သာမန်လူများကား ထိုကျမ်းကို မလိုက်စားပဲ သိနိုင်ရန် ခဲယဉ်းပေသည်။

တနင်္ဂနွေ ရဝိ ဖုဋ္ဌဂြိုဟ်စင်သည် မျက်မြင် တနင်္ဂနွေဂြိုဟ်သွား၏ ရာသီ အံသာ စသည်ဖြစ်၏။ ဤ ရာသီ အံသာ စသည်များကို တနင်္ဂနွေ ရဝိ မဇ္ဈဂြိုဟ်သွမ်း၏ ရာသီအံသာ စသည်မှ တွက်ရ၏။ ထိုကြောင့် တနင်္ဂနွေ ရဝိ မဇ္ဈဂြိုဟ်သွမ်းသည် သင်္ကေတဖြင့် ၁၂ ရာသီတွင် မှန်မှန် ပျမ်းမျှ၍ သွားသော ရာသီ အံသာတို့ ဖြစ်၏။

တဖန် သူရိယနေမင်း၏ ဗဟိုချက်နှင့် အဝေးဆုံး တနင်္ဂနွေ၏ မန္ဒဥစ်ဂြိုဟ်သည်လည်း တဖြည်းဖြည်း ရွေ့လျားလျက်ရှိသော ရာသီ အံသာ စသည်ကို အကြောင်းပြု၍ မိဿရာသီသို့ တနင်္ဂနွေ ရဝိ ဖုဋ္ဌဂြိုဟ်စင် ရောက်သည့်ကာလနှင့် တနင်္ဂနွေ ရဝိ မဇ္ဈဂြိုဟ်သွမ်း ရောက်သည့်ကာလ အပိုင်းအခြား တခု ဖြစ်ပေါ်လာ၏။ ယင်းကာလအပိုင်းအခြားသည် ယခုအခါ တနင်္ဂနွေ၏ မန္ဒဥစ်ဂြိုဟ်သည် မေထုန်ရာသီ ၁၇ အံသာ ၁၇ လိတ္တာ ၃၃ ဝိလိတ္တာ ၁၂ အနုလိတ္တာသို့ ရောက်ဆဲ ဖြစ်၍ မိဿရာသီသို့ တနင်္ဂနွေ ရဝိ ဖုဋ္ဌဂြိုဟ်စင် ရောက်ပြီးနောက် နှစ်ရက် လေးနာရီ လေးမိနစ် ၄၀ စက္ကန့် ကြာပြီးသကာလ တနင်္ဂနွေ ရဝိ မဇ္ဈဂြိုဟ်သွမ်း ရောက်၏။ (ပြည်ထောင်စု မြန်မာနိုင်ငံတော် ပက္ခဒိန်အကြံပေးအဖွဲ့မှ တွက်သော ကိန်းဖြစ်၏။ သံဒိဋ္ဌကျမ်း၏ကိန်းမှာ နှစ်ရက်လေးနာရီ တမိနစ် ၁၂ စက္ကန့် ဖြစ်၏။)

တနင်္ဂနွေ၏ မန္ဒဥစ်ဂြိုဟ်သည် အလွန်အသွားနှေး၏။ နှစ်ပေါင်း ၁၀၀ လျှင် ၁၁ ဝိလိတ္တာ ၃၇ အနုလိတ္တာသာ သွား၏။ ကလိယုဂ်နှစ် သုည(သက္ကရာဇ် ၁၃၂၄ နှစ်တွင် နှစ်ပေါင်း ၅၀၆၃ လွန်ခဲ့၏။) အခါက မန္ဒဥစ်ဂြိုဟ်သည် မေထုန်ရာသီ ၁၇ အံသာ ၇ လိတ္တာ ၄၈ ပိလိတ္တာ ၆ အနုလိတ္တာရှိ၏။ တနင်္ဂနွေ၏ မန္ဒဥစ်ဂြိုဟ်သည် တူရာသီသို့ ရောက်လျှင် မိဿရာသီသို့ ရဝိမဇ္ဈဂြိုဟ်က ပဌမရောက်သဖြင့် သင်္ကြန်အလျင်တက်၍ ရဝိဖုဋ္ဌဂြိုဟ်သည် နောက်ကျသဖြင့် သင်္ကြန် နောက်မှ ကျမည်။ ဤကား တနင်္ဂနွေ မန္ဒဥစ်ဂြိုဟ်၏ သဘာဝတည်း။

ဆိုခဲ့ပြီးသည့်အတိုင်း တနင်္ဂနွေ ရဝိဖုဋ္ဌဂြိုဟ်စင်သည် မိဿရာသီအစ သုညအံသာသို့ ဝင်ရောက်ချိန်သည် မြန်မာလူမျိုးတို့၏ သင်္ကြန်ကျချိန်ဖြစ်သော်လည်း နှစ်သစ်မကူးသေးချေ။ တနင်္ဂနွေ ရဝိမဇ္ဈဂြိုဟ်သွမ်း မိဿရာသီ အစ သုညအံသာသို့ ဝင်ရောက်ချိန်သာ သင်္ကြန်တက်ချိန် ဖြစ်၍ နှစ်သစ်ဆန်းချိန် ဖြစ်၏။ ဤကား သူရိယသိဒ္ဓန္တကျမ်း၏ မူလဌာနဖြစ်သော ဟိန္ဒူလူမျိုးတို့၏အယူဝါဒနှင့်မတူချေ။

တနင်္ဂနွေဂြိုဟ်သည် မိဿရာသီ အစမှ ပြိဿ၊ မေထုန်၊ ကြဋ်၊ သိဟ်၊ ကန်၊ တူ၊ ဗြိစ္ဆာ၊ ဓနု၊ မကာရ၊ ကုမ်၊ မိန် ၁၂ ရာသီ အံသာအဆုံးအထိ လှည့်လည်သွားသော အချိန်မှာ ၃၆၅ ရက် ခြောက်နာရီ ၁၂ မိနစ် ၃၇ စက္ကန့်ရှိ၏။ ကလိယုဂ် တနှစ်လျှင် ရှိသော ရက် နာရီ အပိုင်းအခြား ဖြစ်သည်။ ထိုကြောင့် သက္ကရာဇ် ၁၃၂၄ ခုနှစ် နှစ်ဆန်းချိန်မှာ ၃ နာရီ ၀ မိနစ် ၃၃ စက္ကန့်တွင် သင်္ကြန် တက်၏။ ထိုအချိန်သည် ဥဇ္ဇေနီပြည် လင်္ကာ၏ ဒေသန္တရ နာရီဖြစ်၍ မြန်မာစံတော်ချိန် နာရီ ၃ နာရီ ၂၅ မိနစ် ၅၉ စက္ကန့်တွင် မြန်မာနိုင်ငံ၌ သင်္ကြန်တက်၍




ရန်ကုန်မြို့တွင်း သင်္ကြန်ကျရက် တရက်၏ မြင်ကွင်း
ပြည်လမ်းမပေါ် ဆေးတက္ကသိုလ်(၁)ရှိ လူရည်ချွန်ရေသဘင်မဏ္ဍပ်တွင် တပျော်တပါးရေကစားနေကြစဉ်

နှစ်ဟောင်းမှ နှစ်သစ်သို့ ကူးပြောင်း၏။ (နိုင်ငံတော် ပက္ခဒိန်အကြံပေးအဖွဲ့၏ ဆုံးဖြတ်ချက်၊)

သင်္ကြန်ကျချိန်နှင့် သင်္ကြန် တက်ချိန်တွက်လိုလျှင် လွန်ခဲ့သော နှစ်၏ သင်္ကြန်တက်ချိန်၏ နေ့ရက် အချိန်များကို မှတ်၍ ခြောက်နာရီ ၁၂ မိနစ် ၃၇ စက္ကန့် (တခါတရံ ၃၆ စက္ကန့်) နှောလျှင် နောက်နှစ် သင်္ကြန်တက်ချိန် ရ၏။ အင်္ဂလိပ်ရက် တွက်လိုမူ ဖေဖွာဝါရီလတွင် တရက်ပိုသောနှစ်နှင့် မြန်မာသက္ကရာဇ် အတာပြန် နှစ်များတွင် တရက်နုတ်ရမည်။ (အတာပြန်နှစ် ဆိုသည်မှာ ၃၆၅ ရက်ဖြင့် နှစ်မသတ်ပဲ ၃၆၆ ရက်ဖြင့် သတ်သော နှစ်ဖြစ်၏။)

တွက်ပုံ။ ။သက္ကရာဇ် ၁၃၂၂ ခုနှစ်၏ သင်္ကြန်တက်ချိန်မှာ ၁၉၆၀ ပြည့်နှစ် ဧပြီလ ၁၅ ရက် သောကြာနေ့ မွန်းလွဲ ၃ နာရီ ၀ မိနစ် ၄၆ စက္ကန့် (မြန်မာစံတော်ချိန်) ဖြစ်၏။ ယင်းကို အထက်ပါကိန်းနှင့် နှောလျှင် —

၁၉၆၀ ပြည့်နှစ် ဧပြီလ ၁၅ ရက် မွန်းလွဲ ၃ နာရီ ၀ မိနစ် ၄၆ စက္ကန့်
၆ ။ ၁၂ ။ ၃၇ စက္ကန့်
၁၉၆၁ ခုနှစ် ဧပြီလ ၁၅ ရက် ။ ၉ ။ ၁၃ ။ ၂၃ စက္ကန့်

သင်္ကြန်ကျချိန်တွက်လိုလျှင် သင်္ကြန် တက်ရက် အချိန်နာရီတွင် နှစ်ရက် လေးနာရီ လေးမိနစ် ၄၀ စက္ကန့် နုတ်လျှင် သင်္ကြန်ကျရက် နာရီရ၏။

တွက်ပုံ။ ။၁၃၂၃ ခုနှစ်၏ သင်္ကြန်တက်ချိန်
၁၉၆၁ ခုနှစ် ဧပြီလ ၁၅ ရက် ၉ နာရီ ၁၃ မိနစ် ၂၃ စက္ကန့်
၂ ။ ၄ ။ ၄ ။ ၄၀ စက္ကန့်
၁၉၆၁ ခုနှစ် ဧပြီလ ၁၃ ။ ၅ ။ ၈ ။ ၄၃ စက္ကန့်

ဤကဲ့သို့တွက်နည်းဖြင့် နှစ်ပေါင်း ၁၀၀ ကျော်အထိ သင်္ကြန်ကျ သင်္ကြန်တက်ရက်များကို ခရစ်နှစ်ဖြင့် တွက်နိုင်၏။ မြန်မာ ပက္ခဒိန်ဖြင့် တွက်ရန် ဝါထပ်ရက်ငင် ပြဿနာအမျိုးမျိုးကြောင့် သုံး-လေးနှစ်ခန့်သာ တင်ကြို၍ တွက်နိုင်၏။ အကယ်၍ ဝါထပ်ရက်ငင် မူသေကိန်းများပေါ်ပေါက်ခဲ့လျှင် နှစ်ပေါင်း ၁၀၀ ပက္ခဒိန်၌ သင်္ကြန်ကျ၊ နှစ်ဆန်းနှင့် ဝါထပ်များ တင်ကြို၍ စီမံနိုင်မည် ဖြစ်လေသည်။

သကြန်ကျရက်နှင့် သကြန်တက်ရက်အတွင်း ရက်များကို သကြန် အကြတ်ရက်များ ဟုခေါ်သည်။

တွက်ပုံ။ ။၁၉၆၂ ခုနှစ် ဧပြီလ ၁၃ ရက် သကြန်ကျရက်
၁၄ ရက် ┐ သကြန်အကြတ်
၁၅ ရက် ┘ ရက်
၁၆ ရက် သကြန်တက်ရက်

မြန်မာဗေဒင်ကျမ်းများ၌ တနင်္ဂနွေဂြိုဟ်သည် တနှစ်တကြိမ် မိဿရာသီသို့ ဝင်သောအခါ၌ မိဿသကြန် ခေါ်၏။ အနောက်နိုင်ငံ သိုးဆောင်းလူမျိုးတို့၏ နိုင်ငံရေးဟောကိန်းများ၌လည်း မတ်လ ၂၁ ရက်နေ့ သာယနရဝိ မိဿရာသီဝင်၊ ဇွန်လ ၂၁ ရက်နေ့ သာယနရဝိ ကြဋ္ဋရာသီဝင်၊ စက်တင်ဘာလ ၂၃ ရက် သာယနရဝိ တူရာသီဝင်၊ ဒီဇင်ဘာလ ၂၂ ရက် သာယနရဝိ မကာရ ရာသီဝင် စသော အချိန်များဖြင့် ဒွါရလေးခွင် သကြန်ဝင် ဟောကိန်းများကို ရာဖီ၏ နှစ်စဉ် ဂြိုဟ်သွား ပက္ခဒိန်နှင့် ဟောကိန်းစာအုပ်တွင် ဖော်ပြလေ့ရှိ၏။ သို့အတွက် ဗေဒင်လောကတွင် သကြန်မည်သည် တနင်္ဂနွေ ရဝိဖုဋ္ဌဂြိုဟ်စင် ရာသီများသို့ ဝင်ချိန်ဖြစ်၏။ **ဦးအုန်းကြိုင်**

**သင်္ချာ။** ။သင်္ချာသည် ဂဏန်း၊ အရေအတွက်တို့နှင့်စပ်လျဉ်းသည့် သိပ္ပံပညာရပ်တခုဖြစ်သည်။လူတို့သည် အလွန်ရှေးကျသော ခေတ်အခါကပင် အပေါင်း၊ အနုတ်၊ အမြှောက်၊ အစား ပါဝင်သော လွယ်ကူသည့် ပုစ္ဆာများကို တွက်ခြင်း၊ မြေများကို စံနစ်တကျ တိုင်းတာခြင်း၊ ကောင်းကင်တွင် နက္ခတ်တာရာတို့ကို ကြည့်၍ ပက္ခဒိန်များကို ပြုလုပ်ခြင်း စသည့် အလုပ်များကို ပြုလုပ်နိုင်ခဲ့လေသည်။ ထိုအချိန်မှစ၍ သင်္ချာပညာသည်လည်း ပေါ်ပေါက်လာခဲ့သည်ဟု ဆိုနိုင်သည်။ သို့သော် ဂဏန်းများနှင့် အရေအတွက်များကို လွယ်ကူစွာ ရေးသားဖော်ပြရန် သင့်တော်သောနည်း မရှိခဲ့သဖြင့် သင်္ချာပညာတိုးတက်မှုသည် အလွန်နှောင့်နှေးခဲ့လေသည်။ ဆယ်ရာစုနှစ်တွင်မှ ၁၊ ၂၊ ၃၊ ၄ စသည် တို့ကို အာရပ် အမှတ်အသား များနှင့်တကွ သုညကို ၀ ဟူသော အမှတ်အသားဖြင့် ရေးသားရန် သတ်မှတ်ခဲ့ကြသည်။ ထိုအချိန်မှအစပြု၍ သင်္ချာပညာရပ်သည်လည်း အလွန်တိုးတက် ထွန်းကားလာခဲ့လေသည်။

ရှေးလူမျိုးများအနက် ဂရိတို့သည် သင်္ချာဘာသာကို အလွန်တိုးတက်အောင် ကြံဆောင်ခဲ့ကြလေရာ ဘီစီ ၆၀၀ ပြည့်နှစ်တွင် မီလီတပ်မြို့သားဒဿနိကဗေဒပညာရှင်သေးလိအမည်ရှိ ဂရိအမျိုးသားကြီးသည် ဂျီဩမေတြီနှင့် သက်ဆိုင်သည့် သီအိုရမ်များကို သာမညမှ ကြံနည်းဖြင့် သက်သေပြနိုင်ခဲ့သည့်အပြင်၊ အခြား ပုစ္ဆာ အချက်အလက် များကိုလည်း ယုတ္တိဗေဒနှင့်သက်ဆိုင်သည့် သာမညမှကြံနည်းဖြင့် ဆင်ခြင် ယူဆနိုင်ကြောင်းကို ပြသနိုင်ခဲ့သည်။ ဤနည်းကို တွေ့ရှိခဲ့ရာမှ အစပြု၍ ဂျီဩမေတြီ ပညာရပ် ပေါ်ပေါက်လာလေသည်။ ၁၅ ရာစုနှစ်တွင် ပညာရှိတို့သည် အက္ခရာသင်္ချာကိုတီထွင်ခဲ့ကြ၍ ၁၆ရာစုနှစ်တွင် အနာလစ်တစ်ကယ် ဂျီအိုမေတြီအခြေခံကို ပြုစု ပျိုးထောင်ပေးခဲ့ကြသည်။

ဆဲ့ခုနစ်ရာစုနှစ်မှ စ၍ သင်္ချာပညာကို သိပ္ပံပညာရပ်များတွင် တစထက်တစ တိုးတက်သုံးစွဲခဲ့ကြသည်။ ဤသို့ တိုးတက် သုံးစွဲခဲ့ရာတွင် ခက်ခဲသောပြဿနာများကိုတွေ့ရှိခဲ့သဖြင့် ကာကုလသင်္ချာ ပညာရပ်ကို ကြံဆခဲ့ကြသည်။ဤသို့ ပေါ်ပေါက် ခဲ့ရသည့် သင်္ချာပညာရပ်များကို အမှီပြုလျက် စက်နှင့်သက်ဆိုင်သော ပညာရပ်များနှင့် ရူပဗေဒပညာရပ်များသည် များစွာ တိုးတက်ခဲ့ကြသည်။ အင်ဂျင်နီယာ အတတ်ပညာသည် သင်္ချာပညာဟူသော အုတ်မြစ်ပေါ်တွင် တည်ရှိသဖြင့် ထိုအတတ်ပညာ သင်ကြားလိုသူတို့သည် သင်္ချာကို ကောင်းစွာ တတ်မြောက်ကြရပေသည်။

ယခုခေတ်တွင် သင်္ချာပညာရပ်များမှာ အမျိုးအမည်အားဖြင့် အလွန် များပြားလာ၏။ ယင်းတို့ကို မူလတန်း သင်္ချာရပ်များနှင့် အထက်တန်း သင်္ချာရပ်များဟု နှစ်ပိုင်းပိုင်းခြားထား၏။ ဂဏန်းသင်္ချာ၊ အက္ခရာသင်္ချာ၊ ဂျီဩမေတြီနှင့် တြိဂိုနိုမေတြီ တို့သည် မူလတန်း သင်္ချာတွင် အကျုံးဝင်ကြ၍ အနာလစ်တစ်ကယ် ဂျီဩမေတြီ၊ ကာကုလသင်္ချာ စသည်တို့မှာ အထက်တန်းသင်္ချာတွင် အကျုံးဝင်ကြသည်။

**သင်္ချာ(သံချာ)။** ။ကပိလ ရသေ့ စီရင်အပ်သော 'သံချာသုတ္တ' ခေါ် ဒဿနိကဗေဒကျမ်းအရ သတ္တဝါသည် နိစ္စဖြစ်သော 'ပြဓာန' (ပါဠိ ပဓာန၊ အကြီးဖြစ်သော) ဟူ၍ရင်း၊ 'ပြကတေ့ သဘော'ဟူ၍ရင်း ခေါ်သော 'တတ္တ သဘောတရားသည် 'ပုရိသ'ဟုခေါ်သော အတ္တနှင့် ပေါင်းဆုံမိခြင်းကြောင့် ဖြစ်လာကြောင်း စသည်တို့ကို ဖော်ပြသော 'သင်္ချာအတတ်'။ ယင်းအတတ်ကို သင်္ချာ ခေါ်သည်ကား၊ ပကတိအစရှိကုန်သော နှစ်ဆဲ့ငါးပါးကုန်သော တတ္တ (ပါဠိ-တတ္တ မှန်ကန်ခြင်း) သဘောတရားတို့ကို ရေတွက်အပ်သောကြောင့် 'သင်္ချာ' အတတ် ခေါ်လေသည်။ ယင်းအတတ်ကို သင်္ချာသုတ္တ (သက္ကတ—သုတြ၊ ပါဠိ—သုတ္တ၊ အနက်ကို အကျဉ်းအားဖြင့်ပြသောစကား၊သုတ်။)၊ သင်္ချာကာရိကာ စသော ကျမ်းတို့၌ ဖော်ပြလျက်ရှိသည်။ သို့ဖြစ်၍ ယင်းသင်္ချာသည်သာလျှင် အဋ္ဌာရသအတတ် ၁၈ ပါးတွင် တပါးအပါအဝင် ဖြစ်သည်ဟု သက္ကတကျမ်းဂန် အတတ်ပညာရှင်များ ယူဆကြသည်။ ဂဏိတာအတတ်ကိုမူ ဂဏန်းသင်္ချာ၊ သို့မဟုတ် အက္ခရာသင်္ချာ အတတ်ဟု ဆိုလို

သည်ကို ခွဲခြား၍သိရာ၏။ (အင်္ဂုရသအတတ် ၁၈ ပါး — လည်းရှု။) **ဦးသာမြတ်**

**သင်္ချာလျှောတံ။** ။ကိန်းများကို မြှောက်ခြင်း၊ စားခြင်း၊ ကိန်းရင်းရှာခြင်း၊ ထပ်ကိန်း တွက်ခြင်း စသည်တို့ကို လော့ဂရစ်သမ်နည်းအရ တွက်ချက်ယူနိုင်ရန် ပြုလုပ်ထားသော မျဉ်းတံကို သင်္ချာလျှောတံ (ဆလိုက်ရူး)ဟု ခေါ်၏။ (လော့ဂရစ်သမ် — ရှု။) သင်္ချာလျှောတံကို ခရစ် ၁၆၃၄ ခုနှစ်တွင် တီထွင်ခဲ့၏။ ယင်းဖြင့် အနုစိတ်၍တိုင်းတာယူနိုင်သည့်အပြင် အဖြေကို တိကျစွာ ရနိုင်သောကြောင့် သင်္ချာပညာရှင်များ၊ အင်ဂျင်နီယာများ၊ သိပ္ပံပညာရှင်များ အတွက် အလွန်အသုံးဝင်သော ကရိယာဖြစ်သည်။

သင်္ချာလျှောတံသည် အမြင်အားဖြင့် ရိုးရိုးမျဉ်းတံနှင့် တူ၏။ သို့ရာတွင် ထူးခြားချက်မှာ ယင်း၏ အလယ် တလျှောက်တွင် ရွှေနောက် လျှောယူနိုင်သော စကေးရှိခြင်းဖြစ်သည်။ ထိုလျှောစကေးတွင် မူသေ အမှတ်အသားများ ရှိ၍ စကေးအမှတ်ချင်း တိကျစွာ တွေ့ဆိုင် ကြည့်ရှုနိုင်ရန် ဆံချည်မျှင် မျဉ်းကြောင်းလည်း ပါရှိသည်။ မျဉ်းတံကြီးတွင်လည်း မူသေအမှတ်အသားများရှိသည်။ လျှောစကေးတွင်၎င်း၊ မျဉ်းတံကြီးတွင်၎င်း ရှိသောအမှတ်အသားတို့မှာ မတူညီကြချေ။ ထိုအမှတ်အသားတို့ကို ဂဏန်း ၁ မှ ၁၀၀ အထိ ခွဲစိတ်ထားသည်။ ထိုအမှတ်အသားများမှာ အတိုအရှည် အကွာအဝေးကို တိုင်းတာသော အမှတ်များ မဟုတ်။ ကိန်းဂဏန်းတို့၏ အမှတ်အသားသာ ဖြစ်ကြသည်။ မျဉ်းတံများတွင် သတ်မှတ်ထားသော စကေးအမှတ်အသား အကွာအဝေးတို့မှာ တခုနှင့် တခု မတူကြပေ။ ပုံစံအားဖြင့် စကေးတခု၌ အမှတ် ၁ မှ ၂ အထိ အကွာအဝေးသည် အခြားစကေး၌ အမှတ် ၁၀ မှ ၂၀ အထိ အကွာအဝေးနှင့် တူလိုက တူပေမည်။

သင်္ချာလျှောတံကို အသုံးပြုပုံမှာ ဤသို့ဖြစ်၏။ အကယ်၍ ၃ နှင့် ၂ တို့၏ မြှောက်ရကိန်းကိုရှာလိုသည် ဆိုကြပါစို့။ လျှောစကေးတံမှ ၁ ဂဏန်းကို မျဉ်းတံကြီးမှ ၃ ဂဏန်း နေရာနှင့် တွေ့ဆိုင်မိနေစေရန် လျှောစကေးကို ရွှေပေးရ၏။ ထိုအခါ လျှောစကေးမှ ၂ ဂဏန်းသည် မျဉ်းတံကြီးမှ ၆ ဂဏန်းနှင့် ဆိုင်မိနေသည်ကို တွေ့ရမည်။ ထို့ကြောင့် ၃ နှင့် ၂တို့၏ မြှောက်ရကိန်းသည် ၆ ဖြစ်ကြောင်းကိုသိရ၏။ လျှောစကေးမှ အမှတ်အသားများကို၎င်း၊ မျဉ်းတံကြီးမှ အမှတ်အသားများကို၎င်း အလွယ်တကူနှင့်ကြည့်နိုင်အောင် လျှောစကေးအိမ်တွင် မှန်သားအဖုံး တပ်ထားလေသည်။

**သင်္ဂဇာဆရာတော်** (မြန်မာ ၁၁၇၇–၁၂၄၇)။ ။စကားအရာတွင် တခ်ဏပုပ္ပတ္တိဉာဏ်ထက်မြက်တော်မူသော သင်္ဂဇာဆရာတော်သည် ပုဂံမင်း၊ မင်းတုန်းမင်း၊ သီပေါမင်း ဟူသော မင်းသုံးဆက်တိုင်တိုင် ထင်ရှားတော်မူခဲ့သည်။ ဆရာတော်ကို မြင်းခြံခရိုင် တလုပ်မြို့ကျေးလက် ပေါက်ချောင်းရွာတွင် မြန်မာသက္ကရာဇ် ၁၁၇၇ ခုနှစ် နယုန်လဆန်း ၁၄ ရက်တနင်္ဂနွေနေ့တွင်ဖွားမြင်သည်။ငယ်မည် မောင်ပိုဖြစ်၏။

မောင်ပို ၁၃ နှစ်သားအရွယ်တွင် ရှင်သာမဏေပြုသည်။ ဘွဲ့မှာ ရှင်အဂ္ဂဓမ္မဖြစ်သည်။ ရတနာပူရ အင်းဝမြို့ သဲအင်းသာသနာပိုင် ဆရာတော်ကြီးထံ သွားရောက် စာပေ သင်ယူလျက် ၁၁၉၇ ခုနှစ်တွင် သဲအင်းတိုက်၌ပင် ထီးလင်းဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဖြစ်သည်။ သုံးဝါ ရသောအခါ ရွှေဘိုမြို့အနောက် သီးလုံးဆရာတော် ရှင်စန္ဒိမာထံ သွားရောက် စာပေ သင်ယူသည်။ ထိုနောက် စစ်ကိုင်းမြို့၊ အင်းဝမြို့တို့သို့ သွားရောက် သီတင်းသုံးသည်။ ဆရာတော်အား မင်းတုန်းမင်းက ပင့်ကာ သင်္ဂဇာချောင်းအနီးတွင် ကျောင်းဆောက်၍ တင်လှူသဖြင့် ထိုကျောင်း၌ သီတင်းသုံးသည်ကို အစွဲပြုပြီးလျှင် သင်္ဂဇာ ဆရာတော်ဟု တွင်ခေါ် ကျော်စောသည်။ အဂ္ဂဓမ္မာ လင်္ကာရ ကဝိဇ မဟာဓမ္မ ရာဇာဓိရာဇဂုရု ဘွဲ့တံဆိပ်တော်လည်း ကပ်လှူခြင်း ခံရသည်။

၁၂၄၀ ပြည့်နှစ်တွင် မင်းတုန်းမင်း နတ်ရွာစံပြီးနောက် ဆရာတော်သည် နန်းတွင်းရေးတွင် ဝင်မစွက်လိုသဖြင့် တန်ဆောင်မုန်း လဆုတ် ၁၄ ရက်နေ့တွင် ရန်ကုန်သို့ စုံဆင်းကြွလာတော်မူ၍ ရွှေတိဂုံ စေတီတော်ကြီး အရှေ့ဖက် ကျောင်းတော်ရာတိုက်အတွင်းသီတင်းသုံးနေတော်မူသည်။ ထိုမှတဆင့် မြန်မာနိုင်ငံအောက်ပိုင်း မြို့ရွာအသီးအသီးတို့မှ ပင့်ဆောင်ချက်အရ ကြွရောက်တော်မူကာ တရားဓမ္မဟောပြတော်မူခြင်းဖြင့် သာသနာ ပြုတော်မူသည်။ ဆရာတော်အား မော်လမြိုင်မြို့မှ သိမ်သမုတ်ရန် ကိစ္စအတွက် ပင့်ဆောင်ကြသဖြင့် မော်လမြိုင်မြို့သို့ကြွရောက်ကာ ကျိုက်သံလန်စေတီတော်၏ အရှေ့မြောက်ယွန်းရှိ ဒီပါရုံကျောင်းမှ အနောက်မျက်နှာ တာ ၃၀ ခန့် ကွာသော မြေပြန့်၌ သာသနာ ၅၀၀၀ ပတ်လုံး မပျက်တည်စေခြင်းငှာ ဓမ္မဝိလာသနီ အမည်ရှိသော သိမ်ကြီးကို ကြပ်မသမုတ်တော်မူသည်။

မော်လမြိုင်တွင် သိမ်သမုတ်ပေးပြီးနောက် ရန်ကုန်မြို့သို့ ပြန်ကြွလာကာ ၁၂၄၆ ခုနှစ်တွင် အိန္ဒိယနိုင်ငံ ကာလကတ္တားမြို့သို့ ကြွရောက်၍ ညောင်အုပ်မင်းသား အိမ်တော်၌ တပတ်သီတင်း သုံးတော်မူသည်။ သီဟိုဠ်ကျွန်းသို့ သွားရန်ပါ ရည်ရွယ်တော်မူသော်လည်း မအောင်မြင်ခဲ့ချေ။

၁၂၄၇ ခုနှစ် နတ်တော်လဆန်း ၅ ရက်နေ့တွင် ဆရာတော်ဘုရားကြီးအား မော်လမြိုင်မြို့မှ ဒုတိယအကြိမ် ပင့်ဆောင်ပြန်ရာ ကျိုက်သံလန်စေတီတော် တောင်ဖက် မန်ကျည်းတောကျောင်းတိုက်၌ ခေတ္တတည်းခို ဝါဆိုတော်မူ



သင်္ဂဇာဆရာတော် နောက်ဆုံး သီတင်းသုံးခဲ့သည့် မော်လမြိုင်မြို့ရှိ မန်ကျည်းတောကျောင်းတိုက်

သည်။ ၁၂၄၈ ခုနှစ် ဝါခေါင်လဆန်း ၁၀ ရက် နာရီပြန် ၂ ချက်တီးအချိန်တွင် သင်္ဂဇာဆရာတော်ဘုရားသည် ဝါတော် ၅၂ သက်တော် ၇၂ နှစ်တွင် မန်ကျည်းတောကျောင်းတိုက်၌ပင် ပျံလွန်တော်မူသည်။

သင်္ဂဇာဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကြောင်းအရာ ကျောက်စာကိုလည်း ထိုအခါက မော်လမြိုင်မြို့တွင် ဖွဲ့စည်းလျက်ရှိသော သမာနေဝါဒ အသင်းသားတို့က စရိတ်ကြေးငွေစိုက်ထုတ်ကာ ဝဇီရာရာမ ဆရာတော်ကိုယ်တိုင် ကြပ်မ ကြည့်ရှုတော်လျက် ၁၂၅၁ ခုနှစ် ဝါဆိုလဆန်း ၁၅ ရက်နေ့၌ ကျိုက်သံလန်စေတီတော်၏ တန်တိုင်းအတွင်းဝယ် ကျောက်သလင်းကို ထု၍ ပြုစုရေးသားစိုက်ထူထားသည်။

ဆရာတော်ဘုရားကြီး ပြုစုခဲ့သော ကျမ်း များမှာ အောက်ပါအတိုင်း ဖြစ်သည်။

(၁) ကာယပစ္စဝေက္ခဏာ ကျမ်း၊
(၂) စတုရာရက္ခ ကျမ်း၊
(၃) ဓာတွတ္ထဒီပက ပါဠိ နိဿျ၊
(၄) ဓမ္မပဒပါဠိတော် နိဿျသစ်၊
(၅) ဝိမတိဝိနောဒနီဋီကာ နိဿျ၊
(၆) ဥပသကောဝါဒ စာကိုယ်၊
(၇) ဥပသကောဝါဒ ဋီကာ၊
(၈) သိင်္ဂါလောဝါဒ ဆုံးမစာ၊

ဆရာတော်သည် ကျမ်းတတ်စာတတ် ဖြစ်ရုံမက ဉာဏ်လည်း ထက်မြက်သည်။ စကားအရာလည်း ကြွယ်ဝကျွမ်းကျင်သည်။ ဆရာတော် ဟောပြောဆုံးမလျှင် ဥပမာများ စကားပုံများဖြင့်သာ ဟောပြောဆုံးမလေ့ ရှိသည်။ ဆရာတော်၏ စကားပုံများကို ကြားနာရသည်မှာ ပြုံးစရာ ရွှင်စရာဖြစ်သည်။ ဗဟုသုတ တိုးစရာလည်း ဖြစ်သည်။ 'ရှင်မေဓာပုဂ္ဂိုလ် တုံးတိုနှင့်ရေကူးသလို'၊ 'အရက်ပြတ်၍ ခွက်ကပ်နှင့်မူးသလို'၊ 'သက်သေခံ လက်ငင်းမအပ်နိုင်၍ မျက်စဉ်းခတ်ခံရပုံ' စသော စကားပုံများသည် သင်္ဂဇာဆရာတော် ပြောဆို မိန့်ကြားခဲ့သော စကားပုံများ ဖြစ်သည်။ ဆရာတော် မိန့်ကြားခဲ့သည့် စကားပုံနှင့် ပုံတိုများကို စုဆောင်း၍ ဥပမာသမူဟ ဂီရက္ကမကျမ်းဟူသော အမည်ဖြင့် ထုတ်ဝေထားလေသည်။

# ဓမ္မက္ခန္ဓာအပေါင်း မတိမ်းစောင်း မချွတ်ယွင်းရေး

သင်္ဂါယနာတင်ခြင်းဖြင့် ဗုဒ္ဓသာသနာတော်သန့်ရှင်း၍ အရှည်တည်တံ့အောင် အားထုတ်ခဲ့ကြသည်။ သာသနာနှစ် ၂၅၀၀ အတွင်း သင်္ဂါယနာ ခြောက်ကြိမ်မျှ တင်ခဲ့ပြီးပေပြီ။ အိန္ဒိယနိုင်ငံတွင် သုံးကြိမ်၊ သီဟိုဠ်ကျွန်းတွင် တကြိမ်နှင့် မြန်မာနိုင်ငံတွင် နှစ်ကြိမ် သင်္ဂါယနာတင်ခဲ့လေသည်။

**သင်္ဂါယနာ။** ။သင်္ဂါယနာ ဆိုသည်မှာ ကောင်းစွာ ဟောကြားတော်မူခဲ့သော ပိဋကတ် ဓမ္မက္ခန္ဓာရှစ်သောင်း **စုပေါင်း** ရွတ်ဆိုကြခြင်းပင် ဖြစ်သည်။ ဘုရားသခင် လေးထောင်တို့ကို မချွတ်မယွင်း မတိမ်းမမှား မပျောက်

မပျက် တိကျမှန်ကန်စွာ တည်ရှိစေရန် စည်းဝေး ညှိနှိုင်း မေးဖြေ အတည်ပြုကြပြီးလျှင် တပေါင်းတည်း စုပေါင်း၍ ရွတ်ဆိုပွဲကို သင်္ဂါယနာတင်ပွဲဟု ခေါ်လေသည်။

သင်္ဂါယနာတင်ပွဲကို မြတ်စွာဘုရား ပရိနိဗ္ဗာန်စံသည်မှ စ၍ အနှစ် ၂၅၀၀ အတွင်း ခြောက်ကြိမ်တိုင်တိုင် ပြုလုပ်ကျင်းပခဲ့ကြလေသည်။

**ပဌမသင်္ဂါယနာ။** ။ပဌမ သင်္ဂါယနာတင်ပွဲကို မြတ်စွာဘုရားသခင် ပရိနိဗ္ဗာန် စံတော်မူပြီးနောက် သုံးလ အကြာ မဂဓပြည့်ရှင် ဘုရင်အဇာတသတ် လက်ထက်တွင် ကျင်းပခဲ့သည်။ မြတ်စွာဘုရားသခင် ပရိနိဗ္ဗာန် စံတော်မူကြောင်း ရဟန်းတို့ ကြားသိသောအခါ ပုထုဇဉ်၊ သောတာပန်၊ သကဒါဂါမ် ရဟန်းတို့သည် ပြင်းပြစွာ ငိုကြွေးကြလေသည်။ ထိုအခါ သုဘဒ္ဒ မည်သော တောထွက်ရဟန်းကြီးက 'ငါ့ရှင်တို့ အဘယ်ကြောင့် ငိုကြွေးကြကုန်သနည်း၊ ငါတို့အား မြတ်စွာဘုရားက ဤအမှုကို မပြုကြနှင့်၊ ဤအမှုကိုသာ ပြု၊ ဤသို့မနေနှင့်၊ ဤသို့နေရမည် စသည်ဖြင့် ပိတ်ပင် တားမြစ်ခဲ့သည်၊ ယခုဆိုလျှင် ငါတို့သည် မြတ်စွာဘုရား လက်မှ လွတ်ကြပေပြီ၊ ငါတို့ အလိုရှိတိုင်း ပြုကြရပေတော့မည်'ဟု ဝမ်းမြောက်ဝမ်းသာ ပြောဆိုလေသည်။ သုဘဒ္ဒရဟန်း၏ စကားကို အရှင်မဟာကဿပမထေရ်ကြီး ကြားတော်မူလျှင် 'ဘုရားရှင် ပရိနိဗ္ဗာန်စံပြီးစ အလောင်းတော်ထင်ရှားရှိနေဆဲမှာပင် ဤသို့သော မသူတော်စကားကို ပြောကြားစ ပြုပြီ။ နောင်မကြာမီ မသူတော်စကား မသူတော်တရားထွန်းကားလာလိမ့်မည်။ မြတ်စွာဘုရားကလည်း ပရိနိဗ္ဗာန်စံလွန်တော်မူကာနီးတွင် "အာနန္ဒာ သင်တို့အား ငါဟောအပ်သော တရားနှင့် ငါ ပညတ်အပ်သော ဝိနည်းသည် ငါ ပရိနိဗ္ဗာန်စံလွန်သည့်နောက် ငါ၏ကိုယ်စား ဘုရားပင်ဖြစ်တော့သည်" ဟူ၍ အရှင်အာနန္ဒာအား ဟောကြားတော်မူခဲ့သည်။ ဤဟောတော်မူခဲ့ချက်အရ ကိုယ်တော်စား ဘုရားဖြစ်သော တရားတော်နှင့် ဝိနည်းတော်ခိုင်လုံလျှင် တစုံတရာမျှ မသူတော်တို့ စကား၊ တရားအတွက် စိုးရိမ်ဖွယ်ရာမရှိ၊ သို့ဖြစ်၍ မသူတော်တို့ စကား၊ တရား မထွန်းကားမီ တရားတော်နှင့် ဝိနည်းတော်ကို သင်္ဂါယနာတင်မည်'ဟုအမိန့်ရှိ၏။ ထိုအခါ ဘုရားပရိနိဗ္ဗာန်စံတော်မူရာ ကုသိနာရုံပြည်၌ ရဟန်းပေါင်း ခုနစ်သိန်း စုဝေးမိကြ၏။ ထိုခုနစ်သိန်းမျှသော သံဃာတို့အား အခြံအရံအဖြစ်ထား၍ တေဒဂ်၊ ပဋိသမ္ဘိဒါ၊ တေဝိဇ္ဇာ၊ အဘိညာဏ် အစရှိသော ဂုဏ်ထူး ဝိသေသရှိသည့် ရဟန္တာ ၅၀၀ နှင့် အရှင်မဟာကဿပထေရ် နာယကပြုကာ မဟာသက္ကရာဇ် ၁၄၈ ခုနှစ် ဝါခေါင်လပြည့်ကျော်တရက်နေ့မှ စတင်၍ တပေါင်းလပြည့်နေ့အထိ ခုနစ်လတိုင်တိုင် ရာဇဂြိုဟ်ပြည် ဝေဘာရတောင်ယံ စရည်းပင်ပေါက်ရာ သတ္တပဏ္ဏိ ဂူလိုဏ်၌ ပဌမသင်္ဂါယနာတင်ပွဲ ကျင်းပလေသည်။

ပဌမသင်္ဂါယနာတင်ပွဲတွင် နာယကမထေရ် အရှင်မဟာကဿပ မေးသော ဝိနည်းတော်များကို ဝိနည်းတော်၌ တေဒဂ်ရသော အရှင်ဥပါလိထေရ်က စုံလင်စွာဖြေကြားလေသည်။ (ဥပါလိထေရ် — လည်းရှု။) တရားဒေသနာနှင့် စပ်လျဉ်းသည့် အမေးများကို ဘုရားဟော ဒေသနာအားလုံးကို သိမ်းကြုံးသိတော်မူသော အရှင်အာနန္ဒာက စုံလင်စွာ ဖြေကြားလေသည်။ (အာနန္ဒာထေရ်—လည်းရှု။) ထိုသို့ စုံလင်စွာ ဖြေကြားတော်မူကြပြီးနောက် ရဟန္တာ ငါးရာအဖွဲ့က စုပေါင်းရွတ်ဆို သဘောတူ အတည်ပြုတော်မူကြလေသည်။ ဤပဌမသင်္ဂါယနာကို ရဟန္တာပုဂ္ဂိုလ်မြတ်ကြီး ၅၀၀ တို့ တင်သည်ကို စွဲ၍ ပဉ္စသတိက သင်္ဂါယနာဟူ၍လည်း ခေါ်သည်။ ထိုပြင် ဤ ပဌမသင်္ဂါယနာကို ထေရဝါဒဟူ၍လည်းခေါ်၏။ ဤသို့ ခေါ်ခြင်းမှာ ပဌမ သင်္ဂါယနာ တင်အပ်သော ဓမ္မသဘောနှင့် ဝိနယသဘောတို့သည် သင်္ဂါယနာ တင်တော်မူကြသော အရှင်မဟာကဿပ စသော မထေရ်မြတ်တို့၏ အယူဝါဒမျှသာ ဖြစ်သည်ဟု မဆိုလို။ ထိုဓမ္မသဘောနှင့် ဝိနယသဘောတို့မှာ မြတ်စွာဘုရား အလိုတော်ကျ အတိုင်းသာဖြစ်သည်။ သို့ရာတွင် မြတ်စွာဘုရား ဟောကြားတော်မူစဉ်အခါက ပဌမ သင်္ဂါယနာ တင်ထားသည့် အစီအစဉ်အတိုင်း စီစဉ်ဟောကြားတော်မူခဲ့ရသည် မဟုတ်၊ အကြောင်း အဋ္ဌုပ္ပတ် ပေါ်လာလျှင် အဋ္ဌုပ္ပတ်နှင့် တိုက်ဆိုင်ရာ တိုက်ဆိုင်ရာတို့မှာ အစီအစဉ်ဟူ၍ မထားပဲ ဟောကြားတော်မူခဲ့လေသည်။ ဤ ဟောကြားတော်မူခဲ့သည့် ဒေသနာတော်ကို အရှင်မဟာကဿပ စသော မထေရ်မြတ်တို့က တရားသဘောချင်း တူရာတူရာ စုပေါင်းပြီးလျှင် ဒီဃနိကာယ်၊ မဇ္ဈိမနိကာယ် စသည်ဖြင့် နိကာယ်အမည်သတ်မှတ်ခြင်း၊ တနိကာယ် တနိကာယ်တွင်လည်း အသီးအသီး သီလက္ခန္ဓကျမ်း၊ မဟာဝဂ္ဂကျမ်း စသည်ဖြင့် ကျမ်းအမည် သတ်မှတ်ခြင်း၊ တကျမ်းတကျမ်းတွင်မှလည်း ဝဂ် စသည့် အပိုင်းအခြား သတ်မှတ်ခြင်းတို့ကိုသာ မိမိတို့အယူဝါဒတူညီကြသည့်အတိုင်း သတ်မှတ်၍ သင်္ဂါယနာ တင်တော်မူကြသည်။ ဤသို့ စီစဉ်သတ်မှတ်မှုကိုသာ စွဲ၍ ထေရဝါဒ ဟု ခေါ်သည်။ ဓမ္မဝိနယ သဘာဝအရင်းခံမှာ သမ္မာသမ္ဗုဒ္ဓ ဝါဒသာဖြစ်သည်ဟု မှတ်အပ်၏။ ဒုတိယ သင်္ဂါယနာ တင်ရာ ဂိုဏ်းကွဲသောအခါမှ ထေရဝါဒ ပေါ်ပေါက်လာသည်ဟု ထင်မြင်နေကြခြင်းကား မမှန်၊ ဒီပဝင် စသော ကျမ်းဂန်တို့နှင့်မညီပေ။

**ဒုတိယသင်္ဂါယနာ။** ။ပဌမ သင်္ဂါယနာတင်အပြီး အနှစ် ၁၀၀ အကြာတွင် ဒုတိယသင်္ဂါယနာ တင်လေသည်။ ဝေသာလီပြည် ဝဇ္ဇီတိုင်းသား ရဟန်းအချို့တို့သည် ရွှေငွေကို အလှူခံအပ်၏၊ သေရည်ကို သောက်အပ်၏ စသော ဝိနည်းတော်နှင့် မညီသည့် အဓမ္မတရားဆယ်ပါးကို ပြသ

ဟောပြော၊ ကျင့်ကြံ၍ နေကြသဖြင့် ဓမ္မဝါဒီ ဖြစ်ကြကုန်သော အရှင်ကောင်း အရှင်မြတ်တို့ စိတ်နှလုံး မချမ်းမသာ ဖြစ်ကြလေသည်။ အရှင်ယသ မထေရ်သည် သာသနာတော်၏ အန္တရာယ်ကို ဖယ်ရှားရှင်းလင်းရန် များစွာ လုံ့လ စိုက်ထုတ်၍ ထိုခေတ်အခါမှာ ထင်ရှားသော ရဟန္တာကြီးများမှစ၍ လဇ္ဇီသူတော်ကောင်း အပင်းအသင်းရှာမှီး စုဆောင်းရာ ဝေသာလီပြည်တွင် ရဟန်း သံဃာပေါင်း တသန်း ရှစ်သိန်း စည်းဝေးမိ၏။ ထိုအစည်းအဝေး၌ သဗ္ဗကာမိထေရ်၊ သာဠှထေရ်၊ ရေဝတထေရ်၊ ခုဇ္ဇသောဘိတထေရ်၊ ဝါသဘဂါမိထေရ်၊ သုမနထေရ်၊ သမ္ဘူတထေရ်၊ ယသထေရ် အားဖြင့် ရှစ်ပါးသော ရဟန္တာမထေရ်မြတ်ကြီးတို့သည် အကြီးအမှူးဖြစ်တော်မူကြကုန်၏။ ထိုမထေရ်မြတ် ရှစ်ပါး ကြီးမှူးသည့် သံဃအစည်းအဝေး အလယ်တွင် ဝဇ္ဇီတိုင်းသားတို့၏ အယူဝါဒ ဆယ်ချက်ကို တချက်စီ တချက်စီ ရေဝတမထေရ်မြတ်က အပ် မအပ်မေး၍ သဗ္ဗကာမိမထေရ်မြတ်က မအပ်ကြောင်းကို ဘုရားဟော ပါဠိတော် အထင်အရှားပြ၍ ဖြေကြားတော်မူသည်။ ဖြေကြားတော်မူပြီးလျှင် ဤအဆုံးအဖြတ်အတိုင်း အစည်းအဝေးပါ သံဃာအားလုံး သဘောတူ တညီတညွတ်တည်း ဆုံးဖြတ်ကြသည်။ ထိုနောက် ဤဖြောင့်မတ် မှန်ကန်လှသော သာသနာတရားတော် အရှည်တည်တံ့နိုင်စေရန် တသန်းရှစ်သိန်း သံဃာတော်တို့အထဲမှ ကောင်းသည်ထက် ကောင်းအောင် ပိဋကတ်သုံးပုံ အာဂုံဆောင် ရဟန္တာပုဂ္ဂိုလ် ၇၀၀ တို့ကိုရွေးချယ်ကာ အရှင်ယသမထေရ်ကို အမှူးပြု၍ ဝေသာလီပြည် ဝါလုကာရုံ ကျောင်းတော်၌ ရှစ်လတိုင်တိုင် သင်္ဂါယနာ တင်တော်မူကြသည်။ ဤသင်္ဂါယနာကို နှစ်ကြိမ်မြောက် တင်ခြင်းကြောင့် ဒုတိယ သင်္ဂါယနာဟူ၍၎င်း၊ ရဟန္တာပုဂ္ဂိုလ်ကြီးပေါင်း ၇၀၀ တင်သည်ကို အစွဲပြု၍ သတ္တသတိက သင်္ဂါယနာ ဟူ၍၎င်း ခေါ်သည်။ ဤသင်္ဂါယနာတင်ရာ၌လည်း ဘုရားဟော ပါဠိတော်တို့ကို ပဌမ သင်္ဂါယနာတင် မထေရ်မြတ်ကြီးတို့ စီစဉ်သတ်မှတ်တော် မူခဲ့ကြသည့်အတိုင်းသာ စီစဉ်တော်မူကြသည်။ ထိုအခါဝေသာလီပြည့်ရှင် ဘုရင်ကာလာသောကမင်းသည် ပဌမ ဝဇ္ဇီတိုင်းသား ရဟန်းဆိုးများ၏အသင်းအပင်းဖြစ်ခဲ့သော်လည်း ရဟန္တာပုဂ္ဂိုလ်ကြီးအများ ကြွလာ စည်းဝေးကြသောအခါ ရဟန္တာပုဂ္ဂိုလ်ကြီးများ၏အသင်းအပင်းဖြစ်လာ၍ ဤကာလာသောကမင်းကိုပင် အမှီပြုကာ သင်္ဂါယနာ တင်ရလေသည်။

ထိုအခါ ဝေသာလီပြည် ဝဇ္ဇီတိုင်းသားသံဃာတသောင်းတို့သည် ကောသမ္ဗီပြည်၌ သီးခြားခွဲ၍ သင်္ဂါယနာတင်ကြကုန်သည်။ သူတို့၏ သင်္ဂါယနာကိုလည်း တင်သည့်အခါတွင် သံဃာစုပေါင်း တသောင်းအင်အား များပြားသည်ကို အကြောင်းပြုကာ မဟာသင်္ဂီတိဟု အမည်မှည့်ကြကုန်၏။ တဖန် ထိုတသောင်းမျှသော ရဟန်းတို့အထဲတွင် အများက ပမာဏပြုလောက်သော မထေရ်ကြီးများမပါပဲ သာမညအားဖြင့် ဆရာဟူ၍သာ ခေါ်ရသည့် ပုဂ္ဂိုလ်တွေဖြစ်သောကြောင့် အာစရိယကုလဟူသော အမည်ကိုလည်း ခံယူကြကုန်၏။ ဆရာပေါင်းစုဟု ဆိုလိုသည်။

ဤသို့ ဒုတိယ သင်္ဂါယနာ တင်ပြီးစကပင် ငါဒဂိုဏ်းအသီးအသီး ကွဲပြားလာကြသည်ဖြစ်၍ ထေရဝါဒဂိုဏ်းမှ ၁၁ ဂိုဏ်း၊ မဟာသင်္ဂီတိဂိုဏ်းမှ ငါးဂိုဏ်း ကွဲသွားရာ မူလဂိုဏ်းကြီးနှစ်ဂိုဏ်းနှင့် ပေါင်းလျှင် ၁၈ ဂိုဏ်းဖြစ်လေသည်။ (မဟာယန — လည်းရှု။) ဤသို့ အယူဝါဒ ကွဲပြားကြပြီးလျှင် ရဟန်းသံဃာတို့သည် အသီးအသီး မိမိတို့ အလိုရှိရာ ယခုအခါ အိန္ဒိယဟုခေါ်သော မဇ္ဈိမဒေသ အနှံ့အပြားသွားလာလှည့်လည် သီတင်းသုံးနေကြလေသည်။

**တတိယသင်္ဂါယနာ။** ။ဒုတိယ သင်္ဂါယနာ တင် အပြီးနှစ်ပေါင်း ၁၀၀ ကျော်တွင် တတိယ သင်္ဂါယနာ တင်လေသည်။ သာသနာသက္ကရာဇ် ၂၁၈ ခုနှစ်တွင် နန်းတက်သော အသောကမင်းလက်ထက်တွင် သာသနာတော်သည် အလွန်စည်ပင်ပြန့်ပွားလေသည်။ (အသောကမင်း—ရှု။) အသောကမင်းကြီး၏ ချီးမြှောက်ခြင်းဖြင့် ရဟန်း သံဃာများ ချမ်းမြေ့စွာ သီတင်းသုံးနိုင်ကြသည်ကို တိတ္ထိတို့မြင်လျှင် ရဟန်းဘဝဖြင့်လွယ်ကူစွာ အသက်မွေးကုန်အံ့ဟု သာသနာ့ဘောင်သို့ ဝင်ရောက်ကြလေသည်။ ထိုအခါ ရဟန်းတု ရဟန်းယောင်များကြောင့် သာသနာတော်သည် မသန့်မရှင်းညစ်နွမ်းခြင်း ဖြစ်ခဲ့ရာ ရဟန်းကောင်းများက ထိုရဟန်းတုများနှင့်အတူ ဥပုသ်မပြုပဲ နေလေသည်။ ထိုအကြောင်းကို အသောကမင်းတရားကြီး ကြားသိလျှင် အရှင် မောဂ္ဂလိပုတ္တတိဿ မထေရ်ကြီးအား ပင့်ဆောင်၍ သာသနာကို မည်ကဲ့သို့ သန့်ရှင်းစေသင့်ကြောင်း မေးမြန်းလျှောက်ထားလေသည်။ မထေရ်မြတ်က သင်္ဂါယနာ တင်သင့်ကြောင်း ဩဝါဒပေးသဖြင့် သာသနာ သက္ကရာဇ်၂၃၅ ခုနှစ် နယုန်လမှ တပို့တွဲလအထိ ကိုးလတိုင်တိုင် အသောက မင်းတရားကြီး၏ကူညီထောက်ပံ့မှုဖြင့်ပါဋလိပုတ်ပြည်အသောကာရာမကျောင်း၌ တတိယ သင်္ဂါယနာပွဲ ကျင်းပသည်။ ထိုသင်္ဂါယနာပွဲတွင် အရှင် မောဂ္ဂလိပုတ္တတိဿထေရ်အား နာယကပြု၍ ရဟန္တာတထောင် ရွေးခြယ်စိစစ်ပြီးလျှင် အရံသံဃာခြောက်သန်းနှင့် နှုတ်တက်သင်္ဂါယနာ တင်ကြသည်။ ထိုတတိယ သင်္ဂါယနာပွဲတွင် တိတ္ထိတို့၏ အယူဝါဒများကို စိစစ်၍ ဖယ်ရှားခြင်း ပြုလေသည်။ တတိယ သင်္ဂါယနာသဘင်မှ ပေါ်ပေါက်လာသော အကျိုးကျေးဇူးမှာ ကမ္ဘာအရပ်ရပ်ရှိ နိုင်ငံများသို့ ဓမ္မဒူတခေါ် သာသနာ့တမန်များ စေလွှတ်ခြင်း ဖြစ်သည်။ (ဗုဒ္ဓ သာသနာဝင် — ရှု။) ထိုတတိယသင်္ဂါယနာပွဲကို ထေရဝါဒခေါ် သမားရိုးကျ ဂိုဏ်းမှ

ခွဲထွက်သွားသော အခြား ဂိုဏ်းဝင်တို့က အသိအမှတ် မပြုချေ။

**စတုတ္ထသင်္ဂါယနာ။** ။တတိယသင်္ဂါယနာတင်ပွဲ အပြီး နှစ်ပေါင်း ၂၀၀ ကျော်တွင် စတုတ္ထသင်္ဂါယနာတင်ပွဲ ကျင်းပသည်။ သာသနာသက္ကရာဇ် ၄၅၀ ပြည့်နှစ်ခန့်တွင် သီဟိုဠ်ကျွန်းမင်း ၁၈ ဆက်မြောက်ဖြစ်သည့် ဝဋ္ဋဂါမဏီမင်း လက်ထက်တွင် နောက်နောင်အခါ ပညာနည်းနေ၍ သာသနာမေးမှိန်သောအခါဝယ် ပိဋကတ်သုံးပုံကို ကောင်းစွာ အာဂုံ မဆောင်နိုင် ဖြစ်ကြမည်ကို ရဟန္တာအရှင်မြတ်တို့ ကြံစည်သိရှိတော်မူကြသဖြင့် ပါဠိပိဋကတ်များကို ပေထက်အက္ခရာတင်ခဲ့ရန် သီဟိုဠ်ကျွန်း မလယဇနပုဒ် အာလောကလိုဏ်ဂူ၌ စတုတ္ထသင်္ဂါယနာကို ကျင်းပသည်။ အရှင်မဟာဓမ္မရက္ခိတ အမှူးရှိသော ၅၀၀ သော ရဟန္တာ အရှင်မြတ်တို့သည် ပိဋကတ်သုံးပုံကို မာဂဓဘာသာဖြင့်၎င်း၊ အဋ္ဌကထာများကို သီဟိုဠ်ဘာသာဖြင့်၎င်း ရေးသား၍ ပေထက်အက္ခရာတင်ကြလေသည်။ ထိုစတုတ္ထသင်္ဂါယနာကို ပေါတ္ထကာရုဠ္ဌ သင်္ဂါယနာဟုလည်း ခေါ်သည်။ သင်္ဂါယနာဟု ဆိုသော်လည်း ရှေးသင်္ဂါယနာများကဲ့သို့ စုပေါင်းရွတ်ဆိုခြင်းကို အရင်းခံ မထားပဲ၊ ပေပေါ်၌ အက္ခရာတင်၍ ရေးသားခြင်းကိုသာ အရင်းခံထားလေသည်။ ထိုစတုတ္ထသင်္ဂါယနာတင်ပွဲ ကျင်းပချိန်တွင် အိန္ဒိယပြည်မ၌ ထေရဝါဒဂိုဏ်း ကွယ်ပျောက်နေပြီဖြစ်သဖြင့် စတုတ္ထသင်္ဂါယနာပွဲကို အိန္ဒိယပြည်မက အသိအမှတ်မပြုဟု ဆိုကြသည်။ သို့ရာတွင် ဗုဒ္ဓသာသနသမိုင်းတွင် စတုတ္ထသင်္ဂါယနာတင်ပွဲကား တမူထူးခြားသဖြင့် အလွန်အရေးပါ အရာရောက်ခဲ့သည်။

အိန္ဒိယပြည်မက အသိအမှတ်ပြုသည့် စတုတ္ထသင်္ဂါယနာပွဲကား ဝဋ္ဋဂါမဏီမင်း လက်ထက်ကျင်းပသော သင်္ဂါယနာပွဲအပြီး အနှစ် ၂၀၀ ခန့်အကြာ ခရစ်နှစ် ၇၈ ခုတွင် နန်းတက်သော ကနိသျှကမင်း လက်ထက် သမားရိုးကျဂိုဏ်း၏ ဂိုဏ်းခွဲ သဗ္ဗတ္ထိဝါဒဂိုဏ်းက လက်အောက်ခံဂိုဏ်းခွဲများနှင့် ပူးပေါင်းကြီးမှူးကျင်းပသော သင်္ဂါယနာပွဲ ဖြစ်လေသည်။ ကနိသျှကမင်းသည် ကျမ်းဂန်တတ် သံဃာတော်ကြီးများအားစုဝေးစေပြီးလျှင် ဗုဒ္ဓသာသနာတော်၌ တင်ရှိသော အညစ်အကြေးနှင့် အယူအဆများယှင်းချက်ပေါ် ပေါက်လာသည်များကို သုတ်သင်ရန် သင်္ဂါယနာတင်သည်။ ဗုဒ္ဓသာသနာ ဂိုဏ်းအမျိုးမျိုး၏ အယူအဆအမျိုးမျိုးကို ညှိနှိုင်းဆွေးနွေးပြီးလျှင် အငြင်းအခုံဖြစ်မှုများငြိမ်းရန် ရည်ရွယ်ရင်းဖြစ်သော်လည်း ရည်ရွယ်ချက် ထမြောက် အောင်မြင်ခြင်းမရှိချေ။ ထိုစတုတ္ထသင်္ဂါယနာတင်ပွဲကို မဟာယာနဂိုဏ်းဝင်များကသာ အသိအမှတ်ပြု၍ ထေရဝါဒဂိုဏ်းဝင်များက အသိအမှတ်မပြုချေ။

**ပဉ္စမသင်္ဂါယနာ။** ။စတုတ္ထ သင်္ဂါယနာတင်ပွဲ ပြီးသည့်နောက် အနှစ် ၂,၀၀၀ နီးပါး ကြာသောအခါ ပဉ္စမ သင်္ဂါယနာတင်ပွဲကို ကျင်းပလေသည်။ ရတနာပုံနေပြည်တော်ကို တည်ထောင်ဖန်ဆင်းတော်မူသော မင်းတုန်းမင်းတရားကြီးသည် ပိဋကတ်တော်များ မူအကွဲကွဲရှိသည်များကို ညီညွတ်စေရန်၎င်း၊ ဘုရားရှင်ဓမ္မစက် ပေရွက်နှင့်မလျော်ဟု ဆင်ခြင်ကာ သာသနာ ၅,၀၀၀ ကုန်အောင် တည်စေနိုင်ခြင်းငှာ၎င်း ရည်သန်၍ သာသနာနှစ် ၂၄၀၃ ခု၊ မြန်မာသက္ကရာဇ် ၁၂၂၂ ခုနှစ် ကဆုန်လဆန်း ၁ ရက်နေ့မှစ၍ ၁၂၃၀ ပြည့် ကဆုန်လဆန်း ၁၄ ရက်နေ့အထိ ပိဋကတ်တော်များကို ကျောက်ထက် အက္ခရာ တင်တော်မူသည်။ ဝိနည်းငါးကျမ်း ပါဠိတော် ကျောက်ချပ်ရေ ၁၁၁၊ အဘိဓမ္မာ ခုနစ်ကျမ်း ပါဠိတော် ကျောက်ချပ်ရေ ၂၀၈၊ နိကာယ်ငါးကျမ်း သုတ်ပါဠိတော် ကျောက်ချပ်ရေ ၄၁၀၊ ပေါင်း ကျောက်ချပ်ရေ ၇၂၉ ချပ်တွင် ကျောက်ထက်အက္ခရာ ရေးထိုးကာ မန္တလေးတောင်ခြေရင်းရှိ မဟာလောကမာရဇိန် ကုသိုလ်တော်ဘုရားမဟာရံ တန်တိုင်းအတွင်း၌ အုတ်ပြာသာဒ်ဂူတခုစီ အတွင်း ကျောက်ချပ်တခုစီ တည်စိုက်ကိုးကွယ်တော်မူသည်။ ကျောက်ထက်အက္ခရာ မတင်မီ ရွှေနန်းတော်ကြီးအတွင်း ကြီးကျယ်ခမ်းနားစွာ ဆောက်လုပ်အပ်သော တန်ဆောင်းတော်တွင် တောင်နန်းမတော် မိဖုရားခေါင်ကြီး၏ ဆရာတော်ဖြစ်သော ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မရာဇာဓိ ရာဇဂုရု ဘုရားကြီးဆရာတော်၊ သေနတ်ဝန်ကြီး၏ ဆရာဖြစ်သော နရိန္ဒာဘိ သိရိ သဒ္ဓမ္မ ဇောတိပါလဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု ဆရာတော်၊ သုမင်္ဂလသာမိ သိရိပဝရ မဏိဇ မဟာဓမ္မရာဇာဓိ ရာဇဂုရုဆရာတော်များက ပုဒ်ပါဌ် အက္ခရာ ကျောက်စာ အရေးအသား မချွတ်မယွင်းစေရအောင် သန့်စင်ပြင်ဆင်ပြီး ခန်းပတ်မြို့စား အတွင်းဝန်မင်းကြီး မဟာဥဇနာ၊ ယောမြို့စား မင်းကြီးမင်းလှ မဟာစည်သူ၊ သံတော်ဆင့် မိုင်းခိုင်းမြို့စား မဟာသိရိ ဇေယျသူ၊ သံတော်ဆင့် နေမျိုးရာဇစည်သူ၊ အမိန့်တော်ရေး မင်းထင်ဇေယျသူ၊ အ[illegible]ုံးစာရေး နေမျိုးသိရိကျော်သူတို့အား ကြီးမှူးကြပ်မစေကာ ကျောက်တွင် ရေးထိုးစေသည်။ ယင်းသို့ ပိဋကတ်တော်များကို ရတနာကျောက်သလင်းထက် ရေးတင်တော်မူပြီးနောက် ၁၂၃၃ ခုနှစ် တန်ခူးလပြည့်ကျော် ၁၁ ရက်နေ့မှစ၍ ထိုနှစ် တော်သလင်းပြည့်ကျော် ၁၄ ရက်နေ့အထိ ရွှေနန်းပြာသာဒ်တော်ကြီး သီဟာသနပလ္လင်တော်ရှေ့၌ ဝိနည်းပိဋကတ်ကို အဦးထား၍ ပိဋကတ်သုံးပုံကို အစဉ်သဖြင့် ပေါင်း၍ သင်္ဂါယနာတင်ကြသည်။ ဤပဉ္စမ သင်္ဂါယနာတင်ပွဲကို သုဓမ္မာဆရာတော်များ အမှူးရှိသည့် တိပိဋကဓရ၊ သိက္ခာကာမ၊ သီလဝိသုဒ္ဓိဖြစ်တော်မူကြသော တံဆိပ်တော်ရ မရ ဆရာတော် သံဃာတော် ၂,၄၀၀ တို့နှင့် အထပ်ထပ်စစ်ဆေး မေးမြန်းကာ သံပိုင်ရွတ်ဆို၍ နှုတ်တက်



ပဉ္စမသင်္ဂါယနာတင် ပိဋကတ်ကျောက်စာတော်များ စိုက်ထူထားရာ မန္တလေးတောင်ခြေရှိ ကုသိုလ်တော်ဘုရား

အက္ခရာတင်ကြသည်။ ပဉ္စမသင်္ဂါယနာမှာ မြန်မာသက္ကရာဇ် ၁၂၃၀ ပြည့်နှစ်မှ ၁၂၃၃ ခုနှစ်အထိ မြန်မာနိုင်ငံ မန္တလေး နေပြည်တော်တွင် မင်းတုန်းမင်းတရားကြီးကို အမှူးပြု၍ နန်းတော်ဦးတွင် ဆရာတော် သံဃာတော်အရှင်မြတ်တို့ ပိဋကတ်ပါဠိတော်တို့ကို ရွတ်ဆိုခြင်း ပြုသော်လည်း ဤသို့ ရွတ်ဆိုခြင်းကို အရင်းခံ ပမာနမထားပဲ ချောမွတ်သော ကျောက်သား ၇၂၉ ချပ် ပေါ်တွင် အက္ခရာတင်၍ ရေးသားခြင်းကိုသာ အရင်းခံ ပမာနထားလေသည်။

**ဆဋ္ဌသင်္ဂါယနာ။** ။ပဉ္စမ သင်္ဂါယနာ တင်ပြီးနောက် နှစ်ပေါင်း ၈၀ ကျော်အကြာတွင် ပြည်ထောင်စုမြန်မာနိုင်ငံ၌ပင် ဆဋ္ဌသင်္ဂါယနာတင်ပွဲ ကျင်းပလေသည်။ ဘုရားဟော ပိဋကတ်တို့ကို အထပ်ထပ် အဆင့်ဆင့် ရေးကူးရာ၌ သတိချွတ်ယွင်း ရေးမှားမိခြင်းဟု ဆိုအပ်သော ပမာဒလေခ (ပါဠိပျက်) များကို အထူး သန့်ရှင်းစင်ကြယ်စေလိုသော ကြောင့်၎င်း၊ ထိုစင်ကြယ်သော ပိဋကတ်တော်များကို စက်တင်ပုံနှိပ်၍ ကမ္ဘာအရပ်ရပ်သို့ ပျံ့နှံ့စေခြင်းအားဖြင့် အဓွန့်ရှည်စွာ တည်စေလိုသောကြောင့်၎င်း၊ လွတ်လပ်သောပြည်ထောင်စု မြန်မာနိုင်ငံနှင့်တကွ ဗုဒ္ဓဝါဒီ နိုင်ငံအားလုံးတို့ သာသနာတော်ကို စုပေါင်း အားပေး ချီးမြှောက်လိုသော ကြောင့်၎င်း ဆဋ္ဌသင်္ဂါယနာ တင်တော်မူကြသည်။ ဆဋ္ဌသင်္ဂါယနာ မဟာဓမ္မသဘင်ကြီးကို မြတ်စွာဘုရားသခင် ပရိနိဗ္ဗာန် စံလွန်ပြီးသည့်နောက် နှစ်ပေါင်း ၂၅၀၀ အထိမ်းအမှတ်အဖြစ်နှင့် မြန်မာနိုင်ငံ ရန်ကုန်မြို့တော် ကမ္ဘာအေးစေတီအနီး မဟာပါသာဏလိုဏ်ဂူတော်ကြီးအတွင်း၌ သာသနာနှစ် ၂၄၉၈ ခု၊ မြန်မာ သက္ကရာဇ် ၁၃၁၆ ခုနှစ် ကဆုန်လပြည့်နေ့မှ သာသနာနှစ် ၂၅၀၀ ပြည့်၊ ၁၃၁၈ ခုနှစ် ကဆုန်လပြည့်နေ့အထိ ကျင်းပသည်။ ပြည်ထောင်စု မြန်မာနိုင်ငံတော် သမတကြီးနှင့်တကွ နိုင်ငံတော် ဝန်ကြီးချုပ် ဦးနုအမှူးပြုသော နိုင်ငံတော်အစိုးရ၏ ကူညီထောက်ပံ့အားပေးမှုဖြင့် ယိုးဒယား၊ သီဟိုဠ်၊ ကမ္ဘောဇ၊ လာော ဟူသော ထေရဝါဒနိုင်ငံတို့ရှိ ပိဋကတ္တယပါရဂူ အာသဘမြောက်ပြီး ပညာရှိ မဟာထေရ်ကြီးတို့နှင့် မြန်မာနိုင်ငံတော်ရှိ ပိဋကတ္တယပါရဂူ အာသဘမြောက်ပြီး မထေရ်ကြီးတို့ နှီးနှောဆွေးနွေး တည်းဖြတ်သုတ်သင် အကြိမ်ကြိမ်ပြင်ဆင်ပြီးနောက် ထိုထေရဝါဒ ငါးနိုင်ငံအပါအဝင် ဆရာတော် သံဃာတော် ၂,၆၁၇ ပါးတို့နှင့် ပြည်တွင်းပြည်ပမှ ကိုယ်စားလှယ်တော် အမြောက်အမြားတို့က ဆဋ္ဌသင်္ဂါယနာ မဟာဓမ္မသဘင်ဖွင့်ပွဲ အခမ်းအနားကို သုံးရက်တိုင် ကျင်းပကြသည်။ ထိုနောက် ကဆုန်လပြည့်ကျော် ၄ ရက်နေ့ကစ၍ ဝါဆိုလဆန်း ၇ ရက်နေ့အထိပဌမသန္နိပါတအခါတော်ကြီးကို



အဘိဓဇ မဟာရဋ္ဌဂုရု သံဃမဟာနာယက
ညောင်ရမ်းဆရာတော်

ကျင်းပခဲ့ရာ မန္တလေးမြို့ အဘိဓဇ မဟာရဋ္ဌဂုရု ဘွဲ့တံဆိပ်တော်ရ ညောင်ရမ်း ဆရာတော်ကြီးအား သံဃနာယက တင်မြှောက်၍ သံဂီတိကာရက သံဃာတော် ၅၀၀ နှင့် ဝိနည်း ငါးကျမ်း ပါဠိတော်ကြီးများကို သင်္ဂါယနာတင်၍ ပြီးစီးခဲ့၏။ စာအုပ်အရေအတွက်အားဖြင့် ငါးအုပ်၊ စာမျက်နှာအားဖြင့် ၂,၂၆၀ မျှ ရှိလေသည်။

ဒုတိယ သန္နိပါတ အခါတော်ကြီးကို ၁၃၁၆ ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် ၅ ရက်နေ့မှ တပို့တွဲလဆန်း ၆ ရက်နေ့အထိ ကျင်းပခဲ့ရာ ဒီဃနိကာယ်သုံးကျမ်း၊ မဇ္ဈိမနိကာယ် သုံးကျမ်း၊ သံယုတ္တနိကာယ် ငါးကျမ်းအားဖြင့် နိကာယ်ကြီးသုံးရပ်၊ ကျမ်းကြီး ၁၁ ကျမ်းမျှပြီးစီးခဲ့၏။ စာအုပ်အရေအတွက်အားဖြင့် ကိုးအုပ်မျှရှိပြီးလျှင် စာမျက်နှာအားဖြင့် ၃,၄၃၉ မျက်နှာမျှ ရှိလေသည်။ ဤသန္နိပါတ၌ ညောင်ရမ်း ဆရာတော်ဘုရားကြီး အမှူးရှိတော်မူသည့် ပြည်တွင်းပြည်ပထေရဝါဒနိုင်ငံများမှသံဂီတိကာရကသံဃာတော်ပေါင်း ၅၀၀ ကျော်မျှ ပါဝင်ဆောင်ရွက်တော် မူခဲ့ကြလေသည်။ ဤပဌမနှင့် ဒုတိယ သန္နိပါတတို့ကို မရမ္မသန္နိပါတဟုလည်း ခေါ်လေသည်။

ကမ္ဘူဇ လာဝသန္နိပါတ ဟုခေါ်တွင်သည့် တတိယသန္နိပါတ မဟာဓမ္မသဘင်ကို ၁၃၁၇ ခုနှစ် ကဆုန်လဆန်း ၇ ရက်



ရန်ကုန်မြို့ ကမ္ဘာ့အေးစေတီအနီးရှိ မဟာပါသာဏလိုဏ်ဂူတော်ကြီး



အဂ္ဂမဟာပဏ္ဍိတ မဟာစည်ဆရာတော် ဦးသောဘဏ၊ ပုစ္ဆကဆရာတော်



တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော် ဦးဝိစိတ္တသာရာဘိဝံသ၊ ဝိသဇ္ဇကဆရာတော်

နေ့မှ စ၍ ပဌမဝါဆိုလဆန်း ၁၃ ရက်နေ့အထိ ကျင်းပခဲ့ရာ စာမျက်နှာပေါင်း ၁,၆၅၁၊ သုတ်ပေါင်း ၉၅၅၇ သုတ်ရှိသည့် အင်္ဂုတ္တရနိကာယ်ကြီး၊ အဘိဓမ္မာပိဋကတ် ဓမ္မသင်္ဂဏီမှ ယမိုက်ကျမ်းအထိ အဘိဓမ္မာ အောက် ခြောက်ကျမ်းတို့ကို ထေရဝါဒနိုင်ငံများမှ သံဃာတော်များက သင်္ဂါယနာ တင်လေသည်။ ပခုက္ကူမြို့ မဟာဝိဇယာရာမ အရှေ့တိုက်ဆရာတော် အဂ္ဂမဟာပဏ္ဍိတ ဘဒ္ဒန္တဇဝန မဟာထေရ်၊မန္တလေးမြို့ နိုင်ငံတော် ဝိနည်း ဓိုရ်ခေမာသီဝံဆရာတော် ဘဒ္ဒန္တ ဝိလာသမဟာထေရ်၊ သီဟိုဠ်ကျွန်း ဘာလံကိုဒါမြို့ လင်္ကာဒီပ သုဓမ္မနိကာယ ဘဒ္ဒန္တအာနန္ဒာမေတ္တေယမဟာထေရ်၊ စစ်ကိုင်း တောင်ရိုး တောလေးထပ်ချောင် နိုင်ငံတော်ဝိနည်းဓိုရ် အဂ္ဂမဟာပဏ္ဍိတ စကုမော်ဆရာတော် ဘဒ္ဒန္တဥတ္တမ မဟာထေရ်၊ ပခုက္ကူအနောက်တိုက်ဆရာတော်၊ မန္တလေးမြို့ ဆင်တဲတိုက်သစ်ဆရာတော်၊ မန္တလေးမြို့ ရွှေကျင်နိကာယ မဟာနာယက ပတ္တမြားဆရာတော်၊ ရန်ကုန်မြို့ ဒေဝသာဂရ သိမ်ကုန်းဆရာတော်နှင့် မန္တလေးမြို့ မစိုးရိမ်ဆရာတော်တို့က အလှည့်ကျနာယကအဖြစ် ဆောင်ရွက်တော်မူခဲ့ကြသည်။

သျှာမ သန္နိပါတဟူသော စတုတ္ထအခါတော်ကြီးကို ၁၃၁၇ ခုနှစ် နတ်တော်လဆန်း ၂ ရက်နေ့က စတင်၍ တပို့တွဲလဆန်း ၅ ရက်နေ့အထိ ကျင်းပခဲ့ရာ ထေရဝါဒ နိုင်ငံအားလုံးမှ သမ္မုတိရ သံဂီတိကာရက သံဃာတော်ပေါင်း ၆၀၀ တို့က ယိုးဒယားနိုင်ငံ သံဃနာယက ဆောမ်ဒဂ်ျ ဖရား ဝနရတ် ကိတ္တိသောဘဏ သံဃမဟာထေရ်၊ ပခုက္ကူမြို့ မဟာဝိဇယာရာမတိုက် ဆရာတော်၊ ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် ဆရာတော်၊ စစ်ကိုင်းမြို့ တောလေးထပ်ချောင် ဆရာတော်၊ မန္တလေးမြို့ ဆင်တဲတိုက်သစ် ဆရာတော်၊ ရေနံချောင်းမြို့ ရွှေစေတီ ဆရာတော်၊ မန္တလေးမြို့ ခေမာသီဝံ ဆရာတော်၊ ပတ္တမြားတိုက်ဆရာတော်၊ ယိုးဒယားနိုင်ငံ ဘဒ္ဒန္တဝိမလဓမ္မ မဟာထေရ်၊ မန္တလေးမြို့ အဘိဓဇ မဟာရဋ္ဌဂုရု မစိုးရိမ် ဆရာတော်၊ ရန်ကုန်မြို့ ဒေဝသာဂရ သိမ်ကုန်း ဆရာတော်၊ ဖြူးမြို့ ဆဋ္ဌသင်္ဂါယနာ ဩဝါဒါစရိယကျောင်း ဆရာတော်တို့ကို အလှည့်ကျ သံဃနာယကအဖြစ် တင်မြှောက်ပြီးလျှင် အဘိဓမ္မာ ပိဋကတ်မှ ပဋ္ဌာန်းပါဠိတော်ကြီးငါးအုပ်နှင့်ခုဒ္ဒကနိကာယ်မှ ခုဒ္ဒကပါဌပါဠိတော် အစ စူဠနိဒ္ဒေသ ပါဠိတော်အထိ ၁၅ ကျမ်း (စာအုပ်ရေ ခြောက်အုပ်မျှ) တို့ကို သင်္ဂါယနာတင်ခဲ့လေသည်။ ကျမ်းပေါင်း ၁၆ ကျမ်း၊ စာအုပ်ရေ ၁၁၊ စာမျက်နှာပေါင်း ၄,၉၇၅ မျက်နှာမျှ ပြီးစီးလေသည်။

သီရိလင်္ကာ သန္နိပါတဟု ခေါ်သည့် ပဉ္စမသန္နိပါတ အခါ

တော်ကြီးကို ၁၃၁၈ ခုနှစ် တန်ခူးလဆန်း ၁၃ ရက်နေ့မှ ကဆုန်လပြည့်နေ့အထိ ကျင်းပခဲ့၍ သင်္ဂါယနာတင်ခဲ့သည့် ပိဋကတ်တော်များမှာ ဇာတကပါဠိတော် နှစ်အုပ်၊ ပဋိသမ္ဘိဒါမဂ်ပါဠိတော် တအုပ်၊ နေတ္တိပေဋကောပဒေသ တအုပ်၊ မိလိန္ဒပဉှာပါဠိတော် တအုပ်အားဖြင့် ငါးအုပ်ဖြစ်လေသည်။ ထိုသန္နိပါတတွင် ခေမာသီဝံဆရာတော် ဘဒ္ဒန္တ ဝိလာသ မဟာထေရ်၊ ရွှေဘိုမြို့ ပခန်းကျောင်းဆရာတော် ဘဒ္ဒန္တ ဒေဝိန္ဒမဟာထေရ်၊ ဖြူးမြို့ မြို့ဒေါင့်ကျောင်းဆရာတော် ဘဒ္ဒန္တဇဝနမဟာထေရ်၊ ပခုက္ကူမြို့ မဟာဝိဇယာရာမတိုက် ဘဒ္ဒန္တ ဇဝန မဟာထေရ်၊ စစ်ကိုင်းမြို့ တောလေးထပ်ချောင် ဘဒ္ဒန္တ ဥတ္တမ မဟာထေရ်၊ ပခုက္ကူမြို့ မဟာ ဝိသုတာရာမတိုက် ဘဒ္ဒန္တ သုန္ဒရမဟာထေရ်၊ မန္တလေးမြို့ ပတ္တမြားတိုက်ဆရာတော် ဘဒ္ဒန္တ ဇာဂရမဟာထေရ်၊ ရေနံချောင်းမြို့ ရွှေစေတီတိုက် ဘဒ္ဒန္တ သေဂိကမဟာထေရ်၊ မန္တလေးမြို့မစိုးရိမ်တိုက် ဘဒ္ဒန္တ သူရိယ မဟာထေရ်၊ ရန်ကုန်မြို့ ဒေဝသာဂရ သိမ်ကုန်းဆရာတော် ဘဒ္ဒန္တ ရေဝတဓမ္မ မဟာထေရ်တို့က အလှည့်ကျ သံဃနာယကအဖြစ် ဆောင်ရွက်လေသည်။

သာသနာ ၂၅၀၀ ပြည့်နှစ် (၁၃၁၈ ခုနှစ်) ကဆုန်လပြည့်နေ့တွင် သန္နိပါတငါးကြိမ်ပြီးဆုံးသဖြင့် ဆဋ္ဌသင်္ဂါယနာတင်ပွဲကြီး အောင်မြင်စွာ ပြီးဆုံးလေသည်။ ဆဋ္ဌသင်္ဂါယနာတင်ပွဲတွင် အဂ္ဂမဟာပဏ္ဍိတ မဟာစည်ဆရာတော်က မေးသမျှသော ပိဋကတ်တော်နှင့် စပ်လျဉ်း၍ မေးခွန်းများကို တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဘဒ္ဒန္တဝိစိတ္တသာရာဘိဝံသက စုံလင်စွာ ဖြေကြားတော်မူသည်။ ယင်းသို့ အထပ်ထပ်မေးဖြေ စစ်ကြောပြီးသော ပိဋကတ်တော်များကို သီဟိုဠ်၊ မြန်မာ၊ ယိုးဒယား၊ ကမ္ဘောဇ၊ လောနှင့် အင်္ဂလိပ်အက္ခရာ



မဟာပါသာဏလိုဏ်ဂူတော်ကြီးအတွင်း ဆဋ္ဌသင်္ဂါယနာတင်ပွဲ ကျင်းပနေစဉ်

ပါဠိကျမ်းများနှင့် ညှိနှိုင်းသန့်စင်၍စက်တင်ပုံနှိပ်လေသည်။

ထိုဆဋ္ဌသင်္ဂါယနာတင်ပွဲကြီး အောင်မြင်သည့် အထိမ်းအမှတ် အဖြစ်ဖြင့်၎င်း၊ သာသနာတော် သက္ကရာဇ် ၂၅၀၀ ပြည့် အောင်ပွဲကြီးအဖြစ်ဖြင့်၎င်း အခမ်းအနားဆုံး အကြီးအကျယ်ဆုံး သာသနာ့အောင်ပွဲတော်ကြီးကို ၁၃၁၈ ခုနှစ် ကဆုန်လဆန်း ၁၃ ရက်နေ့မှ လပြည့်ကျော် ၃ ရက်နေ့အထိ ခုနစ်ရက်တိုင်တိုင် ခြိမ့်ခြိမ့်သဲမျှ ကျင်းပခဲ့လေသည်။

**သင်ပင်နှင့်သင်ဖြူးဖျာ။** ။မြန်မာလူမျိုးတို့၏အိမ်ထောင် အသုံးအဆောင်များတွင် သင်ဖြူးဖျာသည် မပါမဖြစ်သော ပစ္စည်းတခု ဖြစ်သော်လည်း သင်ဖြူးဖျာရက်လုပ်သည့် သင်ကြောရရှိသော သင်ပင်ကိုမူ မြင်တွေ့ဘူးသူ ရှားပေမည်။ သင်ပင်ကို သင်ဖြူး ဟုလည်း ခေါ်ကြသေးသည်။ ထိုအပင်ကို မြန်မာနိုင်ငံ၏ မြစ်ရေလျှံသော ဒေသများတွင် တွေ့ရသည်။ သို့သော် မြစ်ရေလျှံ၍ ပို့ချသောသဲမြေထက် နုံးတင်မြေနုကို ပိုမိုနှစ်သက်သည်။ ထို့ကြောင့် သင်ပင်များကို မြန်မာနိုင်ငံအောက်ပိုင်း ဧရာဝတီမြစ်ဝကျွန်းပေါ် နှင့် တနင်္သာရီတိုင်းရှိ ရွှံ့နွံထူထပ်သော စိမ့်မြေများ၌ စိုက်ပျိုး ဖြစ်ထွန်းလေသည်။

သင်ပင်သည် ဇင်ဂျီဗာရေးစီအီး မျိုးရင်းတွင် ပါဝင်၍ ရုက္ခဗေဒအမည်ဖြင့်ကလိုင်နိုဂျင် ဒိုင်ကိုတိုမားဟုခေါ် သည်။ သင်ပင်၏ ပင်စည်သည် အစိမ်းရင့်ရောင်ဖြစ်၍ လုံးပြီးလျှင် ပြောင်ချောနေကာ အောက်ပိုင်းတွင် အကိုင်းအလက်များ ရှင်းသည်။ အမြင့် သုံးပေမှ ခြောက်ပေကျော်ခန့်သာ ရှိနိုင်သော ခြုံပင်မျိုးဖြစ်သည်။ ပင်စည်၏ အခွံသည် မာကျော၍ အတွင်းသားဖြစ်သော အလယ်အူသည် ပျော့သည်။ သင်ပင်သည် ကျူပင်နှင့် အပင်အနေအထား ပုံပန်းသဏ္ဌာန်ဆင်ဆင် တူသော်လည်း ကျူပင်၏ ပင်စည်ကဲ့သို့ ဟောင်းလောင်းပေါက် မဟုတ်ပေ။အပင်၏ အပေါ်ပိုင်းတွင် အရွက်များရှိရာ ယင်းတို့သည် တရွက်ချင်းထွက်၍ အရွက်လည်း မများလှချေ။ ကျူရွက်ထက် ပိုမိုကျယ်ပြန့်ပြီးလျှင် အရွက်ပုံပန်းသည် အတန်ငယ်ဝိုင်း၍ ချောမွတ်သည်။ ထိုအရွက်တို့သည် ကြောယှက်မဟုတ်ပဲ ကြောပြိုင်များ ဖြစ်ကြလေသည်။ တန်ခူး၊ ကဆုန်မှစ၍ မိုးဦးကျအချိန်အခါတွင် သင်ပင်များ ပွင့်ပြီးလျှင် အသီးသီးသည်။ လှပဖွံ့ဆွတ်သော အပွင့်များသည် အနံ့မရှိချေ။ လည်ပင်းကျဉ်း၍ ရှည်သော အော်လံပုံသဏ္ဌာန် ရှိလေသည်။ သင်ဖြူးဖျာ ရက်လုပ်သော အစိတ်အပိုင်းသည် ပင်စည်၏ အခွံဖြစ်၍ သင်ခွံဟူ၍၎င်း၊ သင်ကြောဟူ၍၎င်း ခေါ်ကြလေသည်။

သင်ဖြူးဖျာလုပ်ငန်းသည် စီးပွားဖြစ်ထွန်းနိုင်သော လုပ်ငန်းဖြစ်သည်။ မြန်မာနိုင်ငံ အောက်ပိုင်း၌ မိရိုးဖလာ လုပ်ငန်းတရပ်လည်း မည်ပေသည်။ ကောက်ပဲသီးနှံများ စိုက်



သင်ပင်၏ အပွင့်မှာ မွှေးကြိုင်ခြင်း မရှိသော်လည်း ဆီးနှင်းကဲ့သို့ အဆင်းရှိ၍ အလွန်တင့်တယ်သည်။

ပျိုးပြီးစီး၍ အားလပ်သောအချိန်တွင် အပိုအလုပ်အဖြစ် စိုက်ပျိုးလုပ်ကိုင်နိုင်သည်။ သို့သော် အခြားကောက်ပဲသီးနှံတို့ကဲ့သို့ တနှစ်တသီးစား၊ နှစ်သီးစား စားရပြီးလျှင် သက်တမ်းတိုသော အပင်မျိုး မဟုတ်ချေ။ သုံးလေးနှစ်ကြာမှ စိုက်ပျိုးပြုစု ပျိုးထောင်မှုအကျိုးကို စတင်ခံစားခွင့် ရရှိပေသည်။ စီးပွားရေးအမြင်နှင့် ကြည့်လျှင် အကျိုးခံစားခွင့် ရရှိရန် စောင့်ဆိုင်းရသည်မှာ အချိန်ကြာမြင့်သည်ဟု ထင်မှတ်ဖွယ်ရာ ရှိသော်လည်း နောင် နှစ်စဉ်နှစ်တိုင်း အလျဉ်မပြတ် သုံးစားသွားနိုင်၍ စောင့်ဆိုင်းရကျိုး နပ်သည်ဟု ဆိုရပေမည်။

သင်ပင်သည် အခြား စပါး၊ ပဲ စသော အသီးအနှံမျိုးတို့ကဲ့သို့ အမျိုးမျိုးအစားစား မကွဲပြားပဲ အမျိုးအစား တခုတည်းသာဖြစ်ကာ အပင်သက် အနုအရင့်ကို လိုက်၍ သင်ခွံ၊ သို့မဟုတ် သင်ကြော အမာအပျော့ ကွဲပြားမှု အနည်းငယ်သာ ရှိလေသည်။

သင်ပင်သည် အသီးသီးသော်လည်း အသီးမှ အပင်စိုက်၍ မရချေ။ ငှက်ပျောပင်၊ ဝါးပင်တို့ကဲ့သို့ ခေါင်းကို စိုက်ရလေသည်။ သင်ပင်များသည် မိုးရာသီ၌ အထဆုံးဖြစ်၍ ခြုံကြီးများ၊ ရုံကြီးများဖြစ်လျက် ပေါက်ကြရာ မိုးဦးကျတွင် သင်ပင်ရုံများမှ သင်ခေါင်းများကို ခွဲ၍ တခေါင်းစီဖြစ်စေ၊ နှစ်ခေါင်းစီဖြစ်စေ အစည်းများ စည်းထားရသည်။ သင်ခေါင်းစိုက်ရန် ကျင်းငယ်များကို နေ်းပြားနှင့် တူးထားရသည်။ တပင်နှင့်တပင်၊ တငန်းနှင့်တငန်းကို သုံးပေခန့် အကွာအဝေး ထားရသည်။ ကျင်းကို သင်ခေါင်းနှင့် အနေတော် တူးပြီးလျှင် သင်ခေါင်းကို ကျင်းထဲထည့်၍ အပင်ရင်းကို ကျင်းဘေးရှိမြေဖြင့် ဖုံးဖိကာ မြေကိုနင်းချပေးရသည်။

သင်ခေါင်းစိုက်ပြီးသော် ပဌမနှစ်တွင် ထိုအတိုင်းထား၍

နောင်နှစ်များတွင်သာ ပေါင်းပင်များကို ရှင်းပေးရသည်။ ပေါင်းပင် ဆိုရာ၌ မြက်ပင်၊ ပန်းတော်ပင်၊ နွယ်ပင်များကို ဆိုလိုပေသည်။ ထို့ပြင် ကြုံလိုသောသင်ပင်ရင်းမှ ဘေးတက်များကိုလည်း အနည်းအကျဉ်း ထွင်ပေးရသည်။ ထွင်ပြီးသော ပေါင်းပင်များကို အဝေးသို့ သွားပစ်ရန်မလိုပဲ ထိုနေရာ၌ပင် စုပုံထားလျှင် ယင်းတို့ ဆွေးရိလာသော အခါ သင်ပင်များအတွက် မြေဩဇာဓာတ် ရလေသည်။

စိုက်ပြီး၍ သုံးနှစ်ကြာလျှင် သင်ပင်များကို ခုတ်ယူနိုင်သော်လည်း အပင်တိုများ၍ အပင်ရှည် နည်းသည်။ လေးနှစ်သား သင်ပင်များသည် အတိုအရှည် ညီမျှသဖြင့် လေးနှစ်ကြာမှ သင်ပင်များကို စတင်ခုတ်ယူသင့်ပေသည်။

သင်တောများသည် တခါတရံ အသွားအလာ ခက်ခဲသော အရပ်များတွင် ရှိကြလေရာ သင်ခုတ်ရသည့် အလုပ်သည် သက်သာလွယ်ကူသည် မဟုတ်ပေ။ ထို့ပြင် သင်တောများသည် စိုစွတ်ထိုင်းမှိုင်းသော အရပ်တွင် ရှိတတ်သဖြင့် မှက်နှင့် ခြင်ကောင်များ၊ မြွေ့နက်မည်းကြီးများ၏ ကိုက်ခဲမှုကို အများဆုံး ခံရတတ်သည်။ ထို့ပြင် မြွေဆိုးများ၏ ဘေးရန်၊ တခါတရံ တောရိုင်း တိရစ္ဆာန်များ၏ ရန်ကိုလည်း သတိထား၍ သွားလာ ခုတ်ယူကြရသည်။ လေးငါးရက်မျှ ခုတ်ယူရရှိပြီးသော သင်ချောင်းများကို မြစ်ချောင်းကမ်းပါးသို့ သယ်ယူ၍ တရာစည်း နှစ်ရာစည်း စသည်ဖြင့် စည်းပြီးလျှင် ဖောင်ဖွဲ့ရလောက်အောင် များပြားပါက သင်ဖောင်ဖွဲ့ရသည်။ ထို့နောက် ရေအတက်အကျအလိုက် သင်ဖြူးဖျာလုပ်ငန်းရှိရာ မြို့ရွာများသို့ မျှောရသည်။ တခါတရံ သင်ဖောင်ပေါ်၌ သင်ခုတ်သမားတို့သည် တဲထိုး၍ လိုက်ပါလာကြသည်။ သင်ဖောင်ဖွဲ့လောက်အောင် မများပါက သင်ချောင်းများကို လှေဖြင့်ရင်း၊ လှည်းဖြင့်ရင်း သယ်ယူကြရလေသည်။

သင်ဖြူးဖျာ လုပ်ငန်းသည် စီးပွားဖြစ်ထွန်းနိုင်ကြောင်း အထက်တွင် ဆိုခဲ့သည်။ စိုက်ပျိုးဖြစ်ထွန်းနိုင်မည့် မြေနေရာကွက်များ၌ သင်ပင်များကို စိုက်၍ အလှည့်ကျ ခုတ်သွားလျှင် နှစ်စဉ် ဝင်ငွေရနိုင်သည်။ ဒုတိယကမ္ဘာစစ် မဖြစ်မီ ကာလက ဥယျာဉ်မြေခွန်ခ တဧက နှစ်ကျပ်ကျော်ကျော်မျှ ဖြစ်သော်လည်း သင်ခြံမြေကို တဧက ငါးကျပ်နှုန်း အခွန်ဆောင်ရသည်မှာ ယခုတိုင်ဖြစ်သည်။ ဤသည်ကိုထောက်၍ သင်ဖြူးဖျာ လုပ်ငန်းသည် ဝင်ငွေကောင်းကြောင်းသိသာပေသည်။

မြန်မာနိုင်ငံအောက်ပိုင်းတွင် သင်ဖြူးဖျာလုပ်ငန်း၌ ထင်ရှားသော မြို့နယ်များမှာ ပန်းတနော်၊ ဓနုဖြူ၊ လေးမျက်နှာ၊ ဟင်္သာတတို့ ဖြစ်၍ မအူပင်မြို့နယ်မှလည်း သင်ဖြူးဖျာများ ထွက်သေးသည်။ တနင်္သာရီတိုင်းတွင် မြိတ်ခရိုင် တနင်္သာရီမြို့နယ်၌ သင်ဖြူးဖျာလုပ်ငန်းသည် မြို့နယ်၏ အရေးပါသော အသက်မွေးဝမ်းကျောင်း လုပ်ငန်းတရပ် ဖြစ်ပေသည်။

သင်ဖြူးဖျာချောသည် မြန်မာနိုင်ငံ၏ ရာသီဥတု၊ ယဉ်ကျေးမှု၊ ဓလေ့ထုံးစံနှင့် အလွန်လိုက်လျောသော မြန်မာ့အသုံးအဆောင် ပစ္စည်းတရပ် ဖြစ်သည်။ သင်ဖြူးဖျာချောသည် ပူအိုက်သော ရာသီဥတုအခါတွင် အအေးဓာတ်ကို ပေး၍ ညက်ညက်ညောညောလည်း ရှိသဖြင့် အိပ်စက်နားနေရန်အတွက်ရင်း၊ ပြန့်ပြန့်ပြူးပြူး ထိုင်နိုင်နေနိုင်ရန်အတွက်ရင်း အလွန်ကောင်းပေသည်။ ဧည့်ခန်း ကုလားထိုင်များတွင် အကွက်အမျိုးမျိုးဖော်၍ အညွန့်လေး ရက်ထားသော သင်ဖြူးဖျာငယ်များကို ခင်းပေးထားလျှင် တမျိုးတဖုံ ဧည့်ခန်းဆောင်ကို ပန်ရစေနိုင်ပေသည်။

ဖြူဖွေးညက်ညောသော သင်ဖြူးဖျာတချပ်ကို ခင်းကျင်းထားခြင်းသည်မြန်မာအိမ်များကို ကျက်သရေဆောင်နိုင်ပေရာ ထိုအိမ့်ကျက်သရေဆောင် သင်ဖြူးဖျာတချပ် ဖြစ်လာနိုင်အောင် သင်ရိုင်းကို ပုပြင်လာသည်မှ ဖျာရက်ပြီးသည်အထိ အနည်းဆုံး ၁၂ ရက်ခန့် ကြာမြင့်လေသည်။ သင်တောမှ ရောက်ရှိလာသော သင်ချောင်းများကို ဖျာရက်လုပ်ရန် ပုပြင်စီမံပုံကား ဤသို့တည်း။

သင်တောမှ သယ်ယူလာသော သင်ချောင်းများကို သင်တို သင်ရှည်ဟူ၍ အစားစား ဖြတ်ရသည်။ သင်တို အမျိုးအစားသည် နှစ်တောင့် လေးသစ်(နှစ်တောင်နှင့်လက်လေးသစ်)၊ နှစ်တောင့်ထွာ၊ နှစ်တောင့်နှစ်မိုက် (နှစ်တောင့်ထွာသာသာ)နှင့် သုံးတောင်ဟူ၍ ဖြစ်သည်။

သင်ရှည်မျိုးသည် သုံးတောင်ထွာမှ လေးတောင်၊ လေးတောင်ထွာ၊ ငါးတောင်နှင့် အရှည်ဆုံး ခြောက်တောင် ဖြစ်သည်။ သင်ရှည် အမျိုးအစားထဲတွင် သုံးတောင်ထွာကို အသုံးများ၍ ခြောက်တောင်ရှည် သင်မျိုးသည် ရှားပါးလေသည်။

ထိုကဲ့သို့အတိုအရှည်လိုအပ်သလို ဖြတ်ယူပြီးနောက်တွင် အကြီးအငယ်အလိုက် အလယ်အူတိုင်ကို ချန်လှပ်ကာ သုံးခြမ်းမှ ငါးခြမ်းအထိ ဓားဖြင့် သင်လုံးအဖျားမှ အရင်းတိုင်အောင် ခွဲချစိတ်ထုတ်ရသည်။ ထိုသို့ပြုလုပ်သည်ကို သင်ထိုးသည်၊ သင်ခွဲသည်ဟု ခေါ်လေသည်။ ကျန်ခဲ့သော အူတိုင်ကို ပစ်လိုက်ပြီးလျှင် သင်ခြမ်းများကို ဓားကလေးဖြင့် တဖန်စိတ်ရပြန်သည်။ သင်စိတ်များတွင် ကပ်ကျန်နေသေးသော အူများကို တဖန်ဓားကလေးဖြင့် လှီးထုတ်ရသည်။ သင်အူ လှီးထုတ်ရာ၌ ဓားကိုင်သော ညာလက်ကို အဝတ်ဖြင့် စည်းမထားပါက မတော်တဆ သင်စောင်းဖြင့် လက်ရှတတ်သည်။ အကြောင်းမူ ညာလက်ညှိုးပေါ်တွင် သင်စိတ်ကို တင်၍ ဘယ်လက်ဖြင့် ဆဲယူကာ အူကို ဓားဖြင့် သပ်ချရသောကြောင့်တည်း။

ထိုးပြီးသော သင်၊ သို့မဟုတ် အူလှီးပြီးသောသင်ကို နေလှန်း၍ ခြောက်အောင်ပြုရသည်။ နေမလှန်းပဲ အစိမ်းသုံး

ကြသည်လည်း ရှိသည်။ ထိုကြောင့် သင်စိမ်း၊ သင်ခြောက်ဟူ၍ နှစ်မျိုးခွဲခြား ခေါ်ဝေါ်ကြခြင်း ဖြစ်လေသည်။

သင်စိတ်များကို လုံးဝခြောက်သွေ့သွားအောင် သုံးရက်ခန့် နေလှန်းရသည်။ ခြောက်သွေ့သွားသောအခါ သင်စိတ်များသည် လိပ်၍တက်လာပြီးလျှင် အစိမ်းရောင်မှ အညိုရောင်သို့ ပြောင်းသွားလေသည်။ ဧရာဝတီမြစ်ဝကျွန်းပေါ်ရှိ သင်ဖြူးဖျာ ရက်လုပ်သော ဒေသများတွင် သင်ခြောက်များကို အချောင်း ၄၀၀၊ သို့မဟုတ် ၅၀၀ ရေတွက်၍ တပုံစီစုပုံပြီးလျှင် တပုံပြီးတပုံ အစည်းစည်းခြင်းကို သင်မသည်ဟု ခေါ်ဆိုသုံးနှုန်းသည်။ သင်အချောင်းတရာကို "ရာမ" ဟု ခေါ်သည်။ တစည်းလျှင် လေးရာမစီ ရှိတတ်ရာ၊ လေးရာမ နှစ်စည်းကို ရက်လျှင် သင်ဖျာတချပ်ထက် အနည်းငယ် ပိုနိုင်သည်။ တနင်္သာရီတိုင်းတွင်မူ သင်ချောင်းများကို စိတ်ထုတ်ပြီးနောက် အူ မလှီးပဲ နေလှမ်းထားခြင်းကို သင်မသည်ဟု ခေါ်ဆိုကြသည်။ မိုးတွင်းအတွက် သိုလှောင်ထားရန် သင်မများ ပြုလုပ်ခြင်း ဖြစ်သည်။ အလိုရှိသည့်အခါမှ ယင်းတို့ကို ရေစိမ်ကာ စိတ်ထုတ်၍ အူလှီးပြီးလျှင် သင်ကြောများ ခွာထုတ်ရလေသည်။

အူလှီးပြီး အခြောက်ခံထားသော သင်ခြောက်များကို သင်ဖြူးဖျာများ ဖြစ်လာအောင် ပြုလုပ်ပုံ အဆင့်ဆင့်မှာ ဤသို့ဖြစ်၏။

သင်ခြောက်များကို ရေဖြင့် တည၍၊ သို့မဟုတ် ၁၂ နာရီခန့် စိမ်ပြီးနောက် ကြွင်းကျန်နေသေးသော အူ၊ သို့မဟုတ် အတွင်းသားများကို ခွာထုတ်ရသည်။ ဧရာဝတီ မြစ်ဝကျွန်းပေါ်ဒေသနှင့် တနင်္သာရီတိုင်း သင်ဖြူးလုပ်ငန်းများ၌ ယင်းသို့ သင်ခွာပုံ အနည်းငယ် ခြားနားသည်။ မြစ်ဝကျွန်းပေါ်ဒေသတွင် သင်ကို ရေစိမ်ပြီးနောက် နှီးပြားအနေ အကြီးအသေး လိုသလို ဓားဖြင့် စိတ်ပြီးလျှင် အူအကြွင်းအကျန်ကို ဓားနှင့် သပ်ချရသည်။ ယင်းသို့ သပ်ချပြီးမှ သင်ကိုအပေါ်ကြော ငင်ယူရပြီးနောက် အလယ်ကြောကို တဖန်ငင်ယူရသည်။ အပေါ်ကြော သင်သည် ဖျာ၏ အလှဖက်အပေါ်လွှာအတွက် ဖြစ်လေသည်။ အလယ်ကြောသင်သည် မလှဖက် အောက်လွှာအတွက်ဖြစ်၍ အလယ်ကြောအောက်မှ အူမျှင်သည် ကုန်စုံဆိုင်သုံး သင်အူကြိုးများ ဖြစ်လာကြလေသည်။

တနင်္သာရီနယ်များ၌ သင်ခွာပုံမှာဤသို့ဖြစ်သည်။ သင်ခွာသူသည် အလွန်ကျွမ်းကျင်လိမ်မာရလေသည်။ သို့မဟုတ်က လှပညီညာသော သင်များကို မရနိုင်ဟုဆိုကြသည်။ သင်



ရက်လုပ်ပြီး သင်များကို အထက်လွှာနှင့် အောက်လွှာထပ်၍ သီချုပ်လိုက်သောအခါ လှပသော သင်ဖြူးဖျာများကို ရရှိလေသည်။

ခွာသူသည် ခြေဆင်း၍ထိုင်ပြီးလျှင် ရေစိမ်ပြီးသော သင်များကို မိမိ၏ဗယ်ဖက်၌ထားရသည်။ ခွာမည့်သင်ကိုကောက်ယူ၍ အဖျားပိုင်းကို အတွင်းသို့ ဆတ်ခနဲ ချိုးလိုက်သောအခါ အခွံပိုင်းသည် ပဟသွားသည်။ ပဟထွက်လာသော အပိုင်းကို ပါးစပ်ဖြင့်ကိုက်ယူ၍ ဗယ်လက်ဖြင့်သင်အရင်းပိုင်းကို ထိန်းကာ ညာလက်ဖြင့် သင်အတွင်းသားကို ခွာထုတ်ရလေသည်။ ထိုနောက် သင်အခွံပိုင်းကို ခြေမနှစ်ခုဖြင့် ညှပ်၍ ခြေရင်းတွင် ချလိုက်ပြီးလျှင် သင်အတွင်းသား၊ သို့မဟုတ် သင်အူကို ညာလက်ဖြင့်ယူ၍ ညာဖက်၌ ချလိုက်ရသည်။ ယင်းသို့ဖြင့် ခြေဆင်းထိုင်လျက်ရှိသော သင်ခွာသူ၏ ဗယ်ဖက်တွင် ရေစိမ်ပြီး သင်များ၊ ညာဖက်တွင် သင်အူများ (ကုန်ထုတ်ရန် သင်အူကြိုးများအဖြစ်သုံးသည်။) ခြေရင်းတွင် ဖျာရက်ရန် အသင့်ဖြစ်သော သင်ခွံများ ရှိလေသည်။ သင်ခွာရာ၌ ညာလက်၏ လက်ညှိုးနှင့်လက်မကို သင်ရှတတ်သဖြင့် အဝတ်ဖြင့် စည်းထားရလေသည်။

ခွာထုတ်ပြီးသောသင်ခွံ၊သို့မဟုတ် သင်ကြောများသည် ဖျာရက်ရန် အသင့်ရှိပြီဟု ဆိုရသော်လည်း ဝါးလုံးတန်းများတွင် တရက် နေလှန်းပေးရသေးသည်။ ခြောက်သွေ့သော သင်ခွံတို့သည် ဖြူဖွေး၍ လာလေသည်။ ပုံစံကွက်များ ဖော်၍ ရက်လုပ်ရန်အတွက် သင်ခွံများကို အရောင်ဆိုးကြသည်လည်း ရှိပေသည်။ ခြောက်သွေ့ပြီး သင်ခွံတို့ကို ကြိုးဖြင့်စည်း၍ သင်ထုံးများပြုကာ သိမ်းထားရသည်။ သင်ဖြူးဖျာများ ရက်လုပ်တော့မည့်အခါကျမှ သင်ထုံးများကိုထုတ်ယူ၍ ရေသင့်တော်ရုံဆွတ်ကာ ရက်လုပ်ရသည်။ ရေမဆွတ်ပဲ ရက်လုပ်ပါက သင်ခွံများသည် အကိုင်မခံပဲ ကွဲတတ်ကြ၍ ရက်လုပ်ရာ၌ သေသေသပ်သပ် မဖြစ်နိုင်ပေ။

ရက်လုပ်သည့် သင်ခွံ၏ ပြက်သည် များသောအားဖြင့် တလက်မ၏ လေးပုံတပုံခန့်သာရှိသည်။ ထိုထက် ပြက်ငယ်သည်များလည်း ရှိသည်။ အဝတ်အထည်ကဲ့သို့ ခေါက်ယူနိုင်အောင် နူးညံ့ချောမွတ် ပျော့ပျောင်းလှသော အပ်ကောက်ဖျာဟု ခေါ်ဆိုသည့် သင်ဖြူးဖျာ၏ သင်ခွံသည် ပြက် သေးငယ်လှ၍ လက်နှင့်ကောက်ယူရန် မလွယ်သောကြောင့် အပ်နှင့် ကောက်ယူ ရက်လုပ်ရသည်ဟု ဆိုသည်။

သင်ဖြူးဖျာရက်လုပ်နည်းမှာ နှစ်ပင်ချီ နှစ်ပင်ချ ဖြစ်၍ တပင်ကို သွင်းပြီး ရက်ရသည်။ သင်ဖြူးဖျာ တချပ်တွင် အပြောက်လွှာနှင့် အပိန်းလွှာ ဟူ၍၎င်း၊ အထက်လွှာနှင့် အောက်လွှာ(တနင်္သာရီတိုင်း အသုံးအနှုန်း)ဟူ၍၎င်း ခေါ်ကြသော အလွှာနှစ်လွှာ ပါရှိသည်။ အပြောက်လွှာ၊ သို့မဟုတ် အထက်လွှာဟူသည်မှာ ဖျာ၏အလှဖက်ကို ခေါ်ခြင်းဖြစ်၍ ပန်းကွက်များဖော်၍ ရက်လုပ်ကြပြီးလျှင် ပိန်းလွှာ၊ သို့မဟုတ် အောက်လွှာမှာ မလှဖက်ဖြစ်၍ အကွက်မဖော်ကြပေ။အချို့သင်ဖြူးဖျာများကို နှစ်ဖက်စလုံး သင်ခွံချောဖြင့် ရက်လုပ်၍ နှစ်ဖက်ချောဟု ခေါ်သည်။ အချို့ကိုမူ တဖက်ချောသာ ရက်လုပ်၍ တဖက်ကို သင်ခွံကြမ်းဖြင့် ရက်လုပ်ရာ တဖက်ချောဟုခေါ်လေသည်။ အပေါ်လွှာ၊အောက်လွှာနှစ်ခုစလုံးရက်လုပ်ပြီးသည့်နောက်တွင်နှစ်လွှာကိုအပ်၍ ထိုနှစ်လွှာကို အနီရောင်ချည်ကြိုးဖြင့် ချုပ်ရသည်။ ထိုသို့ အပ်၍ချုပ်ထားသည့် ဖျာနှစ်လွှာကို သင်ဖြူးဖျာတချပ်ဟု ခေါ်ဆိုရလေသည်။

သင်ဖြူးဖျာများ ရက်လုပ်ရာ၌ နည်း ခြောက်နည်းကို အခြေခံကြသည်။ ယင်းတို့မှာ (၁) လိပ်ပြာတောင်၊ (၂) လက်သည်းစောင်း၊ (၃) ဆန်ခါပေါက်၊ (၄)ခုန်ညင်းနွယ်၊ (၅) ကြက်လျှာ နှင့် (၆) မိချောင်းဟူ၍ ဖြစ်သည်။

သင်ဖြူးဖျာများကို အရွယ်အစားစား ရက်လုပ်ကြရာ ခင်းဖျာ၊ အိပ်ဖျာများသည် တတောင်မှ လေးတောင်အထိ အလျားရှိ၍ အနံသည် များသောအားဖြင့် နှစ်တောင့်ထွာ ဖြစ်လေသည်။ တယောက်ထိုင် ဖျာတိုကလေးများ၊ ကုလားထိုင်ခင်း ဖျာတိုကလေးများလည်း ရှိသေးသည်။ ထို့ပြင် အရွယ်ကန့်သတ်ချက် အတိအကျ မရှိသော ဆက်ဖျာကြီးများ၊ ခန်းလုံးပြည့် ဟူသော အနံအလျားကြီးမားသည့် ဖျာကြီးများလည်း ရှိသေးသည်။ ဆက်ဖျာဟူသည်မှာ သာမန်ဖျာကြီးများကို အလျားလိုက် ဖြစ်စေ၊ ထောင်လိုက်ဖြစ်စေ ဆက်ရက်ထားပြီးလျှင် အရွယ်အစား အကန့်အသတ်မရှိပဲ အလိုရှိသည်အထိ ရက်လုပ်နိုင်လေသည်။ အရွယ်အစား အနုအချောကိုလိုက်၍ ဈေးနှုန်းလည်း အမျိုးမျိုးဖြစ်လေရာ အထက်တွင် ဖော်ပြခဲ့သော အပ်ကောက်ဖျာမျိုးသည် နိုင်ငံခြားဖြစ် ကော်ဇောများနည်းတူ တန်ဖိုးရှိလေသည်။ သင်ဖြူးများ ခိုင်ခံ့စေရန် ကတ္တီပါ စသောအစများဖြင့် အနားကွပ်၍ အသုံးပြုကြရာ ခိုင်ခံ့ရုံသာမက အလျားရှည်ထွက်ခြင်းလည်း မရှိသည့်ပြင် သပ်သပ်ရပ်ရပ်လည်း ရှိလေသည်။

သင်ဖြူးဖျာများသည် ရက်လုပ်ပြီးစတွင် အရောင်ဖြူဖွေးနေသော်လည်း နှစ် လ ကြာရှည်လာလျှင် အရောင်နီလာသည်။ ရက်လုပ်ပြီးစကပင် အနီရောင်သန်းနေသော သင်ဖြူးဖျာမျိုးလည်း ရှိသေးရာ ယင်းတို့သည် ပဌမ အမျိုးအစားထက် ဈေးနှုန်းလျော့လေသည်။

သင်ဖြူးဖျာရက်လုပ်ခြင်းသည် ဝင်ငွေကောင်းသော အိမ်တွင်းမှုလုပ်ငန်းတရပ် ဖြစ်သည်။ အထူးသဖြင့် အမျိုးသမီးများ လုပ်ကိုင်ကြသော်လည်း ဧရာဝတီ မြစ်ဝကျွန်းပေါ်တွင် အမျိုးသားများလည်း လုပ်ကိုင်ကြသည်။ ဒုတိယကမ္ဘာစစ်မတိုင်မီက ဓနုဖြူ၊ လေးမျက်နှာ စသော မြို့နယ်များတွင် သင်ဖြူးဖျာရက်လုပ်ခြင်းသည် လယ်လုပ်ခြင်းနည်းတူ တနှစ်စာဝမ်းရေးအတွက် လုံလောက်နိုင်ခဲ့သည်ဟုသိရလေသည်။

မြန်မာလူမျိုးတို့၏ ယဉ်ကျေးမှု ဓလေ့ထုံးတမ်းအရ ရှင်

ပြု ပဉ္စင်းခံ၊ မင်္ဂလာဆောင်တို့၌ သင်ဖြူးဖျာသည် မပါမဖြစ်သော အသုံးအဆောင်တရပ် ဖြစ်ပေရာ လူများသုံးသော ပစ္စည်းဖြစ်၍ သင်ဖြူးဖျာလုပ်ငန်းသည် ဝင်ငွေကောင်းသည်မှာ ယုံမှားဖွယ်ရာ မရှိပေ။ နိုင်ငံခြားမှ ဖယောင်းပုဆိုး၊ လီနိုလီယမ် စသော ကြမ်းခင်းပစ္စည်းများ မည်မျှ လှပ ကောင်းမွန်စေကာမူ သင်ဖြူးဖျာကဲ့သို့ မြန်မာနိုင်ငံ ရာသီဥတုနှင့် လိုက်လျောခြင်း၊ ကျန်းမာရေးနှင့် ညီညွတ်ခြင်း၊ ထားသိုရန် လွယ်ကူသိပ်သည်းခြင်း၊ တန်ဖိုးမများပဲ အသုံးခံခြင်း မရှိသဖြင့် မြန်မာနိုင်ငံဖွား တိုင်းရင်းသားတို့သည် သင်ဖြူးဖျာ သုံးစွဲမှုကို လက်မလွှတ်နိုင်ကြပေ။

သင်ပင်တွင် ပင်စည်အခွံ၊ သို့မဟုတ်သင်ခွံသည်သာ သင်ဖြူးဖျာရက်လုပ်ရသဖြင့် အသုံးဝင်သည် မဟုတ်ပေ။ စင်စစ် သင်တပင်လုံး လိုလိုပင် အသုံးဝင်ပေသည်။ သင်ပင်၏ ခေါင်းကိုသွေး၍ သကြားနှင့်သောက်လျှင်ဆီးအောင့်ခြင်းပျောက်နိုင်သည်ဟု ဆိုကြသည်။ အလွန်အမင်း ဆီးချုပ်လျှင် သင်ရုံအလယ်မှ သင်နုပေါက်ကို နုတ်၍ အနုကို ယူပြီးသော် ကျောက်ပြင်ထက်၌ ကြိတ်ပြီးလျှင် ဆီးခုံ၌ အုံပေးရသည်။ အခြောက်ခံထားသော သင်အူကို ပြာချ၍ ရေတွင်ဖျော်ပြီးလျှင် အကြည်ခံထားသော ထိုပြာရည်ဖြင့် အဝတ်လျှော်ဖွတ်နိုင်သည်။ သင်အူခြောက်များကို ထိုအတိုင်း ထားက မိုးဦးကျတွင် အလွန်အရသာရှိသော သင်အူမှိုကို စားသုံးရသည်။ သင်အူကြိုးကို ကုန်စုံဆိုင်များ၌ ကုန်ပစ္စည်းထုပ်ပိုးရန် အသုံးပြု၍ လယ်သမားများသည် ကျွဲနွားအတွက် လက်ကိုင်ကြိုး၊ နဖားကြိုး၊ နွားလည်ပတ်ကြိုး ပြုလုပ်ကြသည်။

သင်ချောင်းရိုးများကို ပဌမဆုံး ခွဲစိတ်ပြီး ထုတ်ပစ်သော အူမသည်လည်း အလဟဿ မဖြစ်ချေ။ ဘုံဆိုင် အရက်ဆိုင်များသို့ ပုလင်းဖူးဆို့အဖြစ် ဖြတ်တောက် သုံးစွဲရန် ရောင်းချရသေးသည်။ အရွက်ရင့်များသည် ကြွေကျ၍ ဆွေးရိသွားက သင်ပင်များအတွက် မြေဩဇာ ရသည်။ သင်ပွင့်များတွင် အပွင့်ရင်း၌ ဝတ်ရည်သည် ချိုဆိမ့်၍ သင်ပွင့်များကို အချို့ ဟင်းချက်စားကြသေးသည်။

**သင်ပေါင်းစာ။** ။စာပတီးငှက်အမျိုးမျိုးရှိသည့်အနက် စာပတီးဖင်ဖြူမျိုးကို သင်ပေါင်းစာ ဟုလည်း ခေါ်သည်။ သင်ပေါင်းစာသည် ပလိုစီအီဒီး မျိုးရင်းတွင် အက်စထရီဒိုင်နီး မျိုးရင်းခွဲ၌ ပါဝင်၍ ပါဏဗေဒအလိုအရ လွန်ချူရာ စထရိတ်တာ အက္ကုတီကောဒါးဟု ခေါ်သည်။အလျားလေးလက်မခွဲ ရှိ၍ ဖြူဖွေးသော ဖင်ပိုင်းကို ပျံသန်းသည့်အခါ ကောင်းစွာ တွေ့ရသည်။ လယ်ကွင်းများတွင် အအုပ်အသင်းနှင့် နေတတ်သည်။ ရှင်လန်း ဖျတ်လတ်သော ငှက်မျိုး ဖြစ်သော်လည်း စာကလေးများကဲ့သို့ လူနှင့် နီးနီးကပ်ကပ် ယှဉ်ပါးမှု မရှိချေ။ တောတွင်းရွာများရှိ လယ်ကွင်းနှင့် တောင်ယာများတွင် များသောအားဖြင့် တွေ့ရ၍ စပါးပင်နှင့် ရိုးပြတ်များထဲတွင် အကောင် ၅၀ ကျော်ကျော်ခန့် အုပ်ဖွဲ့၍ အစာရှာဖွေ စားသောက် နေတတ်ကြသည်။ အစာ စားသောက်သည့်အခါတွင် တကောင်နှင့် တကောင် ပူးပူးကပ်ကပ် နေတတ်၍ ပျံသန်းသည့် အခါတွင်လည်း ပျားအုပ်ကြီး ပျံသွားသကဲ့သို့ တအုပ်ကြီး ပျံလေ့ ရှိကြသည်။ ပျံသည့်အခါ၌ တချိန်ထိုး ထပျံလေ့ ရှိသော်လည်း ခရီးဝေးဝေး ပျံသန်းလေ့ မရှိချေ။ ကချင်ပြည်နယ်ရှိ တောင်ယာများတွင် ဤငှက်မျိုးသည် စပါးများကို ကုန်လုမတတ် စားတတ်ကြသောကြောင့် အမြဲခြောက်လှန့်နေရသည်။

သင်ပေါင်းစာများသည် မိုးရာသီတွင် သားပေါက်ကြသည်။ အသိုက်ကို ရွာများ၊ လယ်ကွင်းများနှင့် အတော်ဝေးသော တောထဲ၌ မြက်များဖြင့် ပြုလုပ်သည်။ သို့သော် သပ်သပ်ရပ်ရပ် မရှိလှချေ။

သင်ပေါင်းစာမျိုးကို အရှေ့နိုင်ငံများတွင် အနှံ့အပြား တွေ့ရသည်။မြန်မာနိုင်ငံတွင်ကား ကွင်းပြင်များ၌ အတွေ့ရအများဆုံး ငှက်ဖြစ်သည်။ အခြေအနေ ကောင်းမွန်ပါက ပေ ၅,၀၀၀ အမြင့်အထိ တွေ့မြင်နိုင်သည်။

**သင်ပေါင်းပင်။** ။သင်ပေါင်းပင်သည် ထန်းမျိုးတွင် ပါဝင်၍ မျိုးရင်း၏ အမည်မှာ ပါလမေဇီအီး ဖြစ်သည်။ စွန်ပလွံပင်နှင့် မျိုးခွဲတူသည်။ မျိုးစိတ်ကွဲများ ရှိရာ ရုက္ခဗေဒ အမည်အားဖြင့် ဖီးနစ် အကောလစ် ဟူ၍၎င်း၊ ဖီးနစ် ပလူဒိုဆာ ဟူ၍၎င်း၊ ဖီးနစ် ဟျူးမီလစ် ဟူ၍၎င်း ခေါ်သည်။ ဖီးနစ် အကောလစ် သင်ပေါင်းမျိုး (အညာ သင်ပေါင်း)သည် အင်တိုင်းတောများ၌ ပေါက်သည်။ ဖီးနစ် ပလူဒိုဆာ သင်ပေါင်းမျိုးသည် ဒီရေတောများ၌ ပေါက်သည်။ ဖီးနစ် ဟျူးမီလစ် သင်ပေါင်းမျိုးသည် မြန်မာနိုင်ငံ တောင်ပေါ် ဒေသ ဝက်သစ်ချတောနှင့် ထင်းရှူးတောများတွင် ပေါက်သည်။ သင်ပေါင်းပင်တို့သည် ရာသီဥတု၏ ဒဏ်ကိုခံနိုင်ရည်ရှိကြသည်။ အင်တိုင်းတော၊ထင်းရှူးတောများတွင် နှစ်စဉ် တောမီးလောင်ခံရသည့်တိုင်အောင် အပင်များ ပြန်၍ပြန်၍ သန်သန်စွမ်းစွမ်း ပေါက်သည်။ အချို့သော သင်ပေါင်းမျိုးတို့သည် အမြစ်ပွားများမှ အပင်ပွားများ အစုလိုက် ထွက်လေ့ရှိရာ မူရင်း ပင်စည်ကို မီးလောင်၍၎င်း၊ ထိခိုက်၍၎င်း အနာတရ ဖြစ်သွားသော အခါ ပင်ပွားများကို တွေ့နိုင်လေသည်။

သင်ပေါင်းပင်သည် အခြား ထန်းမျိုးတို့နည်းတူ ပင်စည်မှ အကိုင်းအလက်များ ထွက်ခဲသည်။ တခါတရံမှသာ ခွကိုင်းများ ရှိတတ်သည်။ ထန်းမျိုးများတွင် တွေ့ရလေ့ရှိသည့်အတိုင်း ပင်စည်၌ အရွက်ဟောင်း၏ အရာများကို ခပ်စိတ်စိတ် တွေ့နိုင်သည်။

အပင်၏ အမြင့်သည် ၁၂ ပေခန့်အထိ ရှိနိုင်၍ ပင်စည်၏ အချင်းမှာကိုးလက်မခန့်အထိ ရှိနိုင်သည်။ အင်တိုင်း တောများတွင် ပေါက်သော အညာ သင်ပေါင်းမျိုး (ဖီးနစ် အကောလစ်)သည် ပင်စည် ပို၍ တုတ်ပြီးလျှင် အပင်နိမ့်သည်။ ပင်စည်တွင် ရွက်ဟောင်းများမှ ကျန်ရစ်သော အလက်တိုကလေးများဖြင့် ပြည့်နှက်နေတတ်သည်။ သင်ပေါင်းရွက်တို့သည် ပင်စည်ထိပ်ပိုင်း၌ စုပြုံ၍ ထွက်သည်။ ယင်းတို့သည် ငှက်မွေးပုံ ရွက်ပေါင်းဖြစ်၍ ရွက်မြွာကလေးတို့သည် တတောင်ခန့်အထိ ရှည်သည်။ ရွက်ရိုး အောက်ပိုင်းရှိ ရွက်လက်ကလေးများသည် ဆူးသဖွယ် တောင့်တင်း ချွန်မြနေပြီးလျှင် မာကြောသည်။

သင်ပေါင်းပင်သည် အဖို အမ သီးခြား ပွင့်သည်။ သီးခြားသီးသည်။ ဖီးနစ် ဟျူးမီလစ်၏ အမပွင့်ခိုင်သည် နှစ်ပေမှ လေးပေအထိ ရှည်သည်။ လက်မဝက်ခန့်ရှိ ခိုင်တံပေါ်တွင် လက်မဝက်ခန့်ရှိ အသီးများသည် ပြည့်နှက်စွာ သီးလေ့ရှိသည်။ အသီးများ သီးစတွင် အဝါရောင်ရှိ၍ ထိုနောက် မှည့်လာသည့်အခါ မည်းနက်သွားသည်။ ထိုအသီးများကို စားသုံးနိုင်၍ အစေ့သည် စွန်ပလွံစေ့ ကဲ့သို့ အလျားလိုက် ချိုင့်မြောင်းတခု ပါသည်။အညာ သင်ပေါင်းမျိုး(ဖီးနစ် အကောလစ်)အသီးခိုင်သည် တို၍ အသီးများ



အဖူးကို စားရသော သင်ပေါင်းပင်

သည်။ ½ လက်မအထိသာ ကြီးထွားနိုင်သည်။ ထိုအသီးတို့ကိုလည်း စားသုံးနိုင်သည်။ သင်ပေါင်းမျိုးတို့မှ ထန်းရည်ထုတ်ယူသကဲ့သို့ အချိုရည် ထုတ်ယူနိုင်ရာ၊ ထို အချိုရည်ကို သကြားချက်၍၎င်း၊ သေရည်အရက် ချက်၍၎င်း အသုံးပြုနိုင်လေသည်။

သင်ပေါင်းပင် ဟုလည်း အချို့က ခေါ်ဆိုကြသော သရက် သင်ပေါင်းပင်မျိုးလည်း ရှိသေးသည်။ ယင်းအပင်မျိုးသည် အန်နကာဒီယေးစီအီး မျိုးရင်းဝင်ဖြစ်၍ သရက်၊ သီဟိုဠ်သရက် စသည်တို့နှင့် မျိုးရင်းတူသည်။ ရုက္ခဗေဒ အမည်အားဖြင့် ဗျူခါနီးယား လန်စီဖိုလီယား ဟုခေါ်သည်။

ထို သင်ပေါင်းပင်မျိုးတို့သည် အိန္ဒိယနိုင်ငံနှင့် မြန်မာနိုင်ငံ ပေ ၃,၀၀၀ အထိမြင့်သော တောင်ကုန်းဒေသ တောခြောက်များ၌ ပေါက်ရောက်ရာ အိန္ဒိယနိုင်ငံ၌ ကော်ရိုမန်ဒယ်၊ မာလဗာ၊ မိုက်ဆိုးစသော ဒေသများ၌၎င်း၊ မြန်မာနိုင်ငံတွင် ရခိုင်ရိုးမ၊ ပဲခူးရိုးမ၊ တနင်္သာရီ ရိုးမတို့၌၎င်း တွေ့ရှိရလေသည်။ ထိုအပင်မျိုးတို့သည် အပင် အလတ်စားမျိုး ဖြစ်ပြီးလျှင် ပေ ၅၀ အထိ မြင့်နိုင်၍ လုံးပတ် ငါးပေမှ ခြောက်ပေခန့်အထိ ရှိနိုင်သည်။ အရွက်တို့သည် ရွက်ထီးဖြစ်၍ ပျဉ်းတွဲတွဲနေသည်။ အရွက်ကြွေသော်လည်း ရွက်နု အထွက်မြန်သည်။

သရက် သင်ပေါင်းသားသည် အဖိုးတန် သစ်မျိုးမဟုတ်ပေ။ အသားလည်း မမာလှပဲ ကြာရှည်လည်း အသုံးပြုမရချေ။ အသားအရောင်သည် ဝါကြန့်ကြန့်ဖြစ်သည်။ လေသလပ်ခံ၍ အသား သေပြီးသော သင်ပေါင်းသား ကုဗတပေသည် ၄၁ ပေါင် လေးသည်။ ထို သစ်သားဖြင့် ပန်းကန်၊ ဇွန်း စသည်များ၊ကလေးကစားစရာများ၊ ခံတင်၊ တံခါးပေါက်နှင့် ပြတင်းပေါက် ဘောင်များ၊ ထွန်တုံး လက်ကိုင် စသည်တို့ကို လုပ်ကိုင်ကြသည်။

အဖိုးတန် သစ်သားကို သရက် သင်ပေါင်းပင်မှ မရရှိသော်လည်း အခေါက်၊ အသီး၊ အဆန်တို့မှ လူသုံးပစ္စည်းအတွက် အသုံးပြုနိုင်သော အရာဝတ္ထုများကို ထုတ်ယူရရှိနိုင်သည်။ သရက် သင်ပေါင်းသီး၏ အစေ့မှ ဗာဒမ်စေ့နီးပါး အရသာ ကောင်းမွန်သော အဆန်မျိုး ထုတ်ယူရရှိနိုင်သည်။ ထိုအစေ့ဆန်မှ အရသာရှိသော ဆီတမျိုးကို ထုတ်ယူ ရရှိနိုင်သော်လည်း အစေ့ဆန်အတိုင်းကိုပင် ရသာထူးကဲသော ချိုချဉ် ခဲဖွယ်အဖြစ် စားသုံးနိုင်သဖြင့် ဆီထုတ်ယူခြင်းမပြုကြချေ။ အိန္ဒိယနိုင်ငံအလယ်ပိုင်း တောင်ကုန်းဒေသတွင် အသီးရော အစေ့ပါ ထောင်း၍ အခြောက်လှန်းပြီးလျှင် ပေါင်မုံ့ကဲ့သို့ မုံ့တမျိုးပြုလုပ်စားသုံးကြသည်။ အသီးမှ စားကောင်းသော အစေ့ဆန် ရရှိသည့်ပြင်၊ အရောင်တင်ဆီ တမျိုးကိုလည်း ထုတ်ယူရရှိသည်။ အရောင်

တင်ဆီကို အသီးမှသာမက အခေါက်မှလည်း ထုတ်ယူရရှိနိုင်သည်။ အညှံစား ကော်တမျိုးကိုလည်း အခေါက်မှပင် ထုတ်ယူ ရရှိနိုင်သေးသော်လည်း အိန္ဒိယနိုင်ငံ၌ပင် စီးပွားဖြစ် လုပ်ကိုင်ခြင်း မရှိကြသေးပေ။

အိန္ဒိယနိုင်ငံ ပန်ဂျပ်နှင့် ဘုံဘိုင်ပြည်နယ်တို့တွင် သရက်သင်ပေါင်းရွက်များကို ကျွဲစာ နွားစာအဖြစ် အသုံးပြုကြလေသည်။

**သင်ပုန်းကျောက်။** ။ကျောက်သင်ပုန်း၊ ကျောက်တံ စသည်တို့ ပြုလုပ်ရသော ကျောက်ကို သင်ပုန်းကျောက်ဟု ခေါ်သည်။ သင်ပုန်းကျောက်သည် အနီရောင်၊ ခရမ်းရောင်၊ အစိမ်းရောင်၊ မှဲ့ပြာရောင်၊ အပြာရောင် အစရှိသည်ဖြင့် အရောင်အမျိုးမျိုး ရှိတတ်၍ တခါတရံ လချေး ရောနှောပါရှိသောအခါ အရောင် လက်နေတတ်သည်။

သင်ပုန်းကျောက်မျိုးသည် ရေအောက်တွင် ဖြစ်ပေါ်လာသော ကျောက်မျိုး ဖြစ်သည်။ မြစ်ချောင်းများမှ ရေသည် သမုဒ္ဒရာထဲသို့ စီးဝင်သောအခါ ထိုရေတွင် မျောခိုပါရှိကြသည့် အလွန်သေးငယ်သော သဲနှင့် ရွှံ့မှုန့်များသည် ရေအောက် မြေပေါ်သို့ အနည်ထိုင်သွားကြသည်။ ပဌမဆုံး ဤအနည်များသည် အချပ်လွှာ ရှိသည့် ရွှံ့စေးများ ဖြစ်လာ၍ ကာလ ကြာမြင့်သောအခါ အထက်မှ အနည်များ၏ ဖိအားမှာ အလွန် ကြီးမားလာသဖြင့် သင်ပုန်းကျောက်အဖြစ်သို့ ပြောင်းလဲသွားသည်။ ဤသို့ ရေတွင် အနည်ထိုင်ရာမှ ဖိအားဖြင့် ကျောက်ဖြစ်လာသောကြောင့် ဘူမိဗေဒဆရာတို့က သင်ပုန်းကျောက်ကို အသွင်ပြောင်း ရေနည်ထိုင်ကျောက်ဟု ခေါ်သည်။ သင်ပုန်းကျောက်ဖြစ်လာရာ၌ မူလရွှံ့နှင့် သဲမှုန့်တို့တွင် ပါရှိသည့် သံဓာတ် အချိုးကိုလိုက်၍ ကျောက်တွင် အရောင် အမျိုးမျိုး ဖြစ်လာသည်။

သင်ပုန်းကျောက်၏ အထူးခြားဆုံး အချက်တရပ်မှာ အထပ်ထပ် ကွဲနိုင်ခြင်းဖြစ်၍ ဤကျောက်ကဲ့သို့ အထပ်ထပ် ကွဲတတ်သော အခြား ကျောက်များကိုလည်း သိမ်းရုံးပြီးလျှင် သင်ပုန်းကျောက် ဟု ခေါ်သည်။ သင်ပုန်းကျောက်ကို ကျင်းများမှဖို့ခွဲ၍ ဖြစ်စေ၊ ကျောက်ခွဲစက်များဖြင့် ခွဲဖြတ်၍ ဖြစ်စေ တူးဖော်ယူကြသည်။ ဤကျောက်များကို သယ်ယူရာ၌ လွယ်ကူစေရန် အတုံးငယ်များ ပြုလုပ်လေ့ရှိသည်။ သုံးလက်မခန့် ထူသော အတုံးငယ်တတုံးကို သင့်တော်သော အနေအထားတွင် ထောင်ပြီးလျှင် ကျောက်၏ အကြောပေါ်၌ ဆောက်တင်၍ လက်ရိုက်ဖြင့် အနည်းငယ် ထုပေးသောအခါ ကျောက်တွင် အကြောကို လိုက်၍ ဟလာသည်။ ထိုသို့ ဟလာသော နေရာကို ကော်လိုက်လျှင် ကျောက်တပြားမှ နှစ်ပြား ဖြစ်လာသည်။ ဤ



တောင်ထိပ်ကျောက်တွင်းမှ ကျောက်လွှာများကို အထမ်းများဖြင့် ရွာသို့ သယ်ဆောင်ရသည်။

နည်းဖြင့် ကျောက်များကို လွှာယူကြရာ၌ ကျောက်အမျိုးကို လိုက်၍ဖြစ်စေ၊ အရွယ်ကို လိုက်၍ ဖြစ်စေ၊ အသုံးကို လိုက်၍ ဖြစ်စေ ကျောက်အထူအပါး ရကြသည်။ ကျောက်လွှာများတွင် တဖန် မညီမညာသော အနားများကို စက်ဓားဖြင့်၎င်း၊ ရိုးရိုးဓားဖြင့်၎င်း ပိုင်းဖြတ်၍ ညှိယူသည်။

သင်ပုန်းကျောက် အများအပြား ထွက်သော အရပ်ဒေသများမှာ အင်္ဂလန်၊ ပြင်သစ်၊ ဂျာမနီနှင့် အမေရိကန်ပြည်ထောင်စု နိုင်ငံများ ဖြစ်ကြသည်။ သို့သော် အကောင်းဆုံး အမျိုးအစားကို အင်္ဂလန်နိုင်ငံ ဝေလနယ်မှ ရရှိလေသည်။ အချို့ အရပ်ဒေသများတွင် မြေပေါ်ရှိ ကျင်းများမှ တူးဖော်ယူကြ၍ အချို့တွင်မူကား အခြား သတ္တုရိုင်းများကဲ့သို့ပင် မြေအောက် တွင်းများဖြင့် တူးဖော်ယူကြရသည်။ သင်ပုန်းကျောက်ကို ကျောက်သင်ပုန်း ပြုလုပ်ရန်အပြင် ဗိလယက်ခုံတွင် ခင်းရန် အတွက်၎င်း၊ အိမ်များတွင် မိုးရန် အတွက်၎င်း၊ စာပြသော ကျောက်သင်ပုန်းကြီးများ ပြုလုပ်ရန် အတွက်၎င်း အမြောက်အမြား အသုံးပြုကြသေးသည်။

# သင်ပုံကြီးမှ သင်ပုန်းကြီးသို့ ပြောင်းသလော

**မြန်မာစာ သင်ပုံသင်နည်း အခြေခံကျမ်း၊ သရနှင့်ဗျည်းတို့ကို စည်းကမ်းတကျရေးသားပုံ၊ ရွတ်ဖတ်ပုံမှအစ လိုလေသေးမရှိ ပြည့်စုံလုံလောက်စွာ ပြုစုထားသည်။ သင်ပုန်းကြီး အကျဉ်း သုံးမျိုး အကျယ် သုံးဆယ်ရှိသည်။ သင်ပုန်းကြီးကို လေ့လာလျှင် မြန်မာ စာလုံးပေါင်းတို့၏ အရေး အဖတ် အသံထွက် စည်းကမ်းစံနစ် ရှိပုံကို သိနိုင်ပေမည်။**

**သင်ပုန်းကြီး** (မြန်မာ)။ ။သင်ပုန်းကြီးမှာ မြန်မာစာပေကို သင်ကြားလေ့လာ တတ်မြောက်စေရန် ရှေးဦးအစ အခြေခံ သင်ကြားရသော ကျမ်းငယ် ဖြစ်သည်။ ယင်းကျမ်းငယ်၌ သရ နှင့် ဗျည်းတို့ကို ရေးသားပုံ၊ ရွတ်ဖတ်ပုံ၊ သံနေသံထားမှ စ၍ သင်ပုံသင်နည်းကို ပြဆိုထားသည်။ အမည်မှာလည်း ထိုသို့ သင်ပုံ သင်နည်းကို ပြဆိုထားသော ကျမ်းဖြစ်သောကြောင့် သင်ပုံကြီး ဖြစ်ဟန်တူသည်။ နောင်လာ နောက်သားတို့ ပုံ့၌ သေးသေးတင်ကို န သတ် ပြောင်းလဲကာ ဝိသဇ္ဇနီ နှစ်လုံးပေါက်၍ ရေးသားကြသောကြောင့် သင်ပုန်းကြီး ဖြစ်လာဟန် တူသည်။

တနည်း၊ ရှေးအထက်ကျော်ကာရီက ဘုန်းကြီးကျောင်းတို့၌ သင်ပုန်းကြီးကို သင်ကြားသောအခါ အလျားသုံးပေ၊ အနံတပေ ခြောက်လက်မခန့်ရှိ မျက်နှာ နှစ်ဖက်တွင် ချောမွတ်အောင် ပွတ်တိုက်၍ ကြက်ဆူ၊ ကသစ် စသည့် ပွသော မီးသွေး ထမင်းရေတို့ဖြင့် ချေထားသော သစ်သား သင်ပုန်းကြီးတွင် (က–ကာ) စသည်ကို ကန့်ကူဆံဖြင့် ရေး၍ သင်ကြား ကြရသည်။ ထိုသို့ သစ်သား သင်ပုန်းကြီးတွင် ရေး၍ သင်ကြားရသောကြောင့် သင်ပုံကြီးမှ သင်ပုန်းကြီး ဖြစ်လာဟန် တူသည်။

ထိုသင်ပုန်းကြီး ကျမ်းငယ်ကို သက္ကရာဇ် ၅၉၆ ခုတွင် နန်းတက်သော ကျစွာမင်းလက်ထက် ဒိသာပါမောက္ခ ဘွဲ့တံဆိပ်တော်ရ ဆရာတော် ဦးကျည်ပွေ့သည် ကျစွာမင်း တောင်းပန်အပ်သည်ဖြစ်၍ ရေးသားစီရင်သည်။ ပုဗ္ဗဂန္ထဟု ခေါ်၏။ ဆရာတော် ဦးကျည်ပွေ့သည်ပင် ယင်းသင်ပုန်းကြီး၏အဖွင့်ဖြစ်သော ပုဗ္ဗဂန္ထဋီကာခေါ် သင်ပုန်းကြီးဋီကာကိုလည်း သရေခေတ္တရာပြည်မြို့နေ ရှင်ဝရဓမ္မ တောင်းပန်အပ်သည်ဖြစ်၍ ရေးသားစီရင်ခဲ့သည်။

ဆရာတော် ဦးကျည်ပွေ့သည် ကျစွာမင်းလက်ထက်၌ အသက် ၆၀ ကျော်မှ စာသင်၍ အံ့ဩလောက်အောင် တတ်သည်ဟု ကျော်ကြားသော ဆရာတော်တပါး ဖြစ်သည်။ တနေ့သော် ဦးကျည်ပွေ့သည် တန်ပူပစ်ချရာ တွင်း၌ တန်ပူများပြည့်နေသည်ကို မြင်လေသော် 'ဤတန်ပူတွင်း၌ တန်ပူတို့သည် တနေ့တချောင်း ကျရောက်ရာမှ တွင်းပြည့်သည်။ ငါသည်လည်း တနေ့လျှင် စာတကြောင်းမျှ သင်အံလေ့ကျက်သော် ကျမ်းတတ်ပုဂ္ဂိုလ် ဖြစ်ရာ၏' ဟု ဆင်ခြင်မိ၍ အသက် ၆၀ ကျော်မှ စာသင်ရန်အတွက် ဘုရင့်ထံဝင်၍ ကန့်ကူဆံ အလှူခံရာ၊ ဘုရင်က 'ကျည်ပွေ့ အတက်ပေါက်မှ စာတတ်တော့မည်ပ' ဟု လှောင်ပြောင်ထား လိုက်သည်။ နောက်စာသင်၍ တတ်သောအခါ ကျည်ပွေ့ကို သစ်ခက်သစ်ညွန့်စည်း၍ ဘုရင့်ထံဝင်လေရာ၊ ဘုရင်က ဆရာတော်များအား မေးမြန်းစစ်ဆေးစေသည်တွင် အမှန်ပင် စာတတ်ကြောင်း သိရသဖြင့် လွန်စွာ ကြည်ညို၍ ဒိသာပါမောက္ခဟူသော ဘွဲ့တံဆိပ်နာမံ ဆက်ကပ်ပြီးလျှင် ကိုးကွယ်လေသည်။ ထိုအခါမှစ၍ ဆရာတော် ဦးကျည်ပွေ့ ဟု ယနေ့တိုင် ကျော်ကြားလျက်ရှိသည်။

ထိုသင်ပုန်းကြီးကား သရ သက်သက်၊ ဗျည်း သက်သက်၊ ဗျည်း ဗျည်းချင်း၊ဗျည်းနှင့်သရတွဲစပ်ပုံ အက္ခရာစုံလင်သဖြင့် မြန်မာဘာသာ စကားအတွက်၎င်း၊ မြန်မာစာပေအတွက်၎င်း လိုလေသေးမရှိ၊ ပြည့်စုံလုံလောက်သည်။ ရေးသားပုံ အစီအစဉ်လည်း အလွန်ကောင်းသည်။ ပုဂံခေတ်မှ စ၍ ယခုခေတ်တိုင်အောင် သင်ကြားလာကြသည်။

ထိုသို့ သင်ကြားရာ၌လည်း ရှေးခေတ်အခါက ဘုရင်မင်းမှ စ၍ တိုင်းသူပြည်သားတို့သည် ဘုန်းကြီးကျောင်း၌ ပညာသင်ကြားကြရသည်။ ဘုန်းကြီးများလည်း ဗုဒ္ဓဝါဒီ ခေါင်း

ဆောင်များ ဖြစ်၍ မိမိတို့ကျောင်းသို့ ပညာသင်ကြားရန် ရောက်လာသော တပည့်တို့အား သင်ပုန်းကြီး မသင်မီ ရှေးဦးစွာ 'နမော ဗုဒ္ဓါယ သိဒ္ဓံ' ဟူသော ဘုရားရှိခိုးကို ကျမ်းဦး အစ ပဏာမအဖြစ်ဖြင့် သင်ကြားပေးလေ့ ရှိကြသည်။ အဓိပ္ပာယ်ကား 'ဘုရားအား ရှိခိုးခြင်းကိစ္စ ပြီးမြောက်ပါစေသတည်း' ဖြစ်သည်။ နောက်မှ အ၊ အာ စသော သရနှင့် က၊ ခ စသော ဗျည်းတို့ကိုငင်း၊ က၊ ကာ စသော ကမချသင်ပုန်းကြီး စသည်တို့ကိုငင်း အစဉ်အတိုင်း သင်ကြားပေးလေ့ရှိကြသည်။

သင်ပုန်းကြီးသည်လည်း (၁) က-ကမချ သင်ပုန်းကြီး၊ (၂) ကက် သင်ပုန်းကြီး၊ (၃) ကိတ် သင်ပုန်းကြီး ဟူ၍ အကျဉ်းအားဖြင့် သုံးမျိုးဖြစ်၏။

ထိုသုံးမျိုးတို့တွင် က-ကမချသင်ပုန်းကြီးသည်လည်း (၁) က သင်ပုန်းကြီး၊ (၂) ကျ သင်ပုန်းကြီး၊ (၃) ကြ သင်ပုန်းကြီး၊ (၄) ငှ သင်ပုန်းကြီး၊ (၅) မျှ သင်ပုန်းကြီး၊ (၆) ငြှ သင်ပုန်းကြီး၊ (၇) ကွ သင်ပုန်းကြီး၊ (၈) ကျွ သင်ပုန်းကြီး၊ (၉) ကြွ သင်ပုန်းကြီး၊ (၁၀) ငှွ သင်ပုန်းကြီးဟူ၍ အကျယ်အားဖြင့် ဆယ်မျိုး ဖြစ်၏။

ကက်သင်ပုန်းကြီးသည်လည်း (၁) ကက် သင်ပုန်းကြီး၊ (၂) ကျက်သင်ပုန်းကြီး၊ (၃) ကြက်သင်ပုန်းကြီး၊ (၄) ငှက်သင်ပုန်းကြီး၊ (၅) မျှက်သင်ပုန်းကြီး၊ (၆) ငြှက် သင်ပုန်းကြီး၊ (၇) ကွက်သင်ပုန်းကြီး၊ (၈)ကျွက် သင်ပုန်းကြီး၊ (၉) ကြွက် သင်ပုန်းကြီး၊ (၁၀) ငှွက် သင်ပုန်းကြီး ဟူ၍ အကျယ်အားဖြင့် ဆယ်မျိုးဖြစ်၏။

ကိတ် သင်ပုန်းကြီးသည်လည်း(၁) ကိတ် သင်ပုန်းကြီး၊ (၂) ကျိတ် သင်ပုန်းကြီး၊ (၃) ကြိတ် သင်ပုန်းကြီး၊ (၄) ငှိတ် သင်ပုန်းကြီး၊ (၅) ငြှိတ် သင်ပုန်းကြီး၊ (၆) မျှိတ် သင်ပုန်းကြီး၊ (၇)ကွိတ် သင်ပုန်းကြီး၊ (၈)ကျွိတ် သင်ပုန်းကြီး၊ (၉)ကြွိတ် သင်ပုန်းကြီး၊ (၁၀) ငှွိတ် သင်ပုန်းကြီး ဟူ၍ အကျယ်အားဖြင့် ဆယ်မျိုးဖြစ်၏။ ဤသို့အားဖြင့် အလုံးစုံ ပေါင်းလျှင် သင်ပုန်းကြီးမျိုး ၃၀ ဖြစ်၏။

ထိုသင်ပုန်းကြီးမျိုး ၃၀ ကို သင်ကြားရာ၌လည်း 'နမော ဗုဒ္ဓါယ သိဒ္ဓံ' ဟူသော ဘုရားရှိခိုးကို ရှေးဦးစွာ သင်ရသည်။ နောက် သရ ရှစ်လုံး၊ နောက် ဗျည်း ၃၃ လုံး၊နောက် ကမချ၊ နောက် ကက်၊ နောက် ကိတ် အစဉ်အတိုင်း သင်ကြားရသည်။ သင်ကြားသောအခါ သရ ဗျည်း အက္ခရာတို့ကို ဖရေး၍ ဆိုရိုးအတိုင်းဆိုကာ နှုတ်တက်အာဂုံ ရ၍အောင် သင်ကြားရသည်။

အ-အာ-ဣ-ဤ-ဥ-ဦ-ဧ-ဩ

ဤသရ ရှစ်လုံးကား ပါဠိဘာသာအတွက် ဖြစ်သည်။

က-ခ-ဂ-ဃ-င။ စ-ဆ-ဇ-ဈ-ည ။ ဋ-ဌ-ဍ-ဎ-ဏ။ တ-ထ-ဒ-ဓ-န။ ပ-ဖ-ဗ-ဘ-မ။ ယ-ရ-လ-ဝ-သ-ဟ-ဠ-အံ။

ဤဗျည်း ၃၃ လုံးကား ပါဠိ မြန်မာ နှစ်ဘာသာအတွက် ဖြစ်သည်။ ယင်း သရနှင့်ဗျည်းတို့ကို အက္ခရာ ခေါ်သည်။

**ဗျည်းသုံးဆဲ့သုံးလုံး ဆိုရိုး။** ။က-ကြီး၊ ခ-ခွေး၊ ဂ-ငယ်၊ ဃကြီး၊ င၊ စ-လုံး၊ ဆ-လိမ်၊ ဇ-ကွဲ၊ ဈ-မြင်ဆွဲ၊ ည ၊ဋ-သံလျင်းချိတ်၊ ဌ-ဝမ်းဘဲ၊ ဍ-ရင်ကောက်၊ ဎ-ရေမှုတ်၊ ဏ-ကြီး၊ တ-ဝမ်းပူ၊ ထ-ဆင်ထူး၊ ဒ-ထွေး၊ ဓ-အောက်ချိုက်၊ န-ငယ်၊ ပ-စောက်၊ ဖ-အုပ်ထုပ်၊ ဗ-ထက်ချိုက်၊ ဘ-ကုန်း၊ မ၊ ယ၊ ရ၊ လ၊ ဝ၊ သ၊ ဟ၊ ဠ-ကြီး၊ အံ။

**က မချ သင်ပုန်းကြီး။** ။က မချ သင်ပုန်းကြီးဆယ်မျိုးတို့တွင် က-ကျ-ကြ-ငှ-မျှ-ငြှ သင်ပုန်းကြီး ခြောက်မျိုးတို့၌—

အ-အာ အိ-အီး-အု-အူး-အေး-အဲး-အော့-အော်-အံး-အား ဟူ၍ အကျဉ်း သရ ၁၂ လုံး ဖြစ်သည်။

ထို ၁၂ လုံးတို့ကို ဝိသဇ္ဇနီပေါက် သုံးလုံးဖြင့် အသံကို ခွဲသောအခါ —

အာ-အာ-အိ-အိ-အိ့-အိး၊ အု-အူ-အူ့-အူး၊ အေ-အေ့-အေး၊ အဲ-အဲ့-အဲး၊ အော-အော့-အော်၊ အံ-အံ့-အံး၊ အား ဟူ၍ အကျယ် သရ ၂၃ လုံး ဖြစ်လာသည်။

ဗျည်း ၃၃ လုံးနှင့် တွဲသောအခါ အကျဉ်း သရ ၁၂ လုံးနှင့်တွဲ၍ ရေးထားသော်လည်း ဆိုရိုးပြုသောအခါ အကျယ် သရ ၂၃ လုံး ဖြစ်လာသည်။ (အသံ ၂၃ မျိုး ဖြစ်လာသည်ဟု ဆိုလိုသည်။)

**က ဗျည်းနှင့် သရ တွဲပုံ။** ။က-ကာ-ကိ-ကီး၊ ကု-ကူး၊ ကေး-ကဲး-ကော့-ကော်-ကံး-ကား။ (ဤ၌ ကီး-ကူး-ကေး-ကဲး-ကံး-တို့မှာ ဝိသဇ္ဇနီအောက်မြစ်တလုံးရှေးဆည်းနှစ်လုံးစီ ဖြစ်၍ သုံးလုံးစီဖြစ်ရမည်။ သို့သော်လည်း သင်ပုန်းကြီး စာအုပ်၌ နှစ်လုံးစီသာ ဖြစ်နေသဖြင့် ချုံး၍ရေးထားဟန်တူသည်။ နောက်သင်ပုန်းကြီးတို့၌လည်း အသံသုံးမျိုး ခွဲဝေရာ၌ နည်းတူ မှတ်ပါ။)

**ဆိုရိုး။** ။ကကြီး ရေးက၊ ကကြီး ရေးချ ကာ၊ ကကြီး ရေးလုံးကြီးတင် ကိ၊ ကကြီးရေး လုံးကြီးတင် ဆံခပ် ကီ၊ အောက်ကမြစ် ကိ့၊ ရှေ့က နှစ်လုံးပေါက် ကီး၊ ကကြီးရေး တချောင်းငင် ကု၊ ကကြီးရေး နှစ်ချောင်းငင်ကူ၊ အောက်ကမြစ်ကူ့၊ရှေ့ကနှစ်လုံးပေါက် ကူး၊သဝေထိုးကကြီးရေး ကေ၊ အောက်ကမြစ် ကေ့၊ ရှေ့က နှစ်လုံးပေါက် ကေး၊ ကကြီးရေး နောက်ပစ် ကဲ၊ အောက်ကမြစ် ကဲ့၊ ရှေ့က နှစ်လုံးပေါက် ကဲး၊ သဝေထိုး ကကြီးရေးချ ကော၊ အောက်ကမြစ် ကော့၊ သဝေထိုးကကြီးရေးချ ရှေ့ထိုးကော်၊ ကကြီးရေး သေးသေး တင် ကံ၊ အောက်ကမြစ် ကံ့၊ ရှေ့က နှစ်လုံးပေါက် ကံး၊ ကကြီးရေးချ ဝိသဇ္ဇနီ နှစ်လုံးပေါက် ကား။ (ဝိသဇ္ဇနီပေါက်ရာ၌ ဝတ်ဆံပေါက် ဟူ၍ငင်း၊ ဝစ္စပေါက် ဟူ၍ငင်း၊ ဝိသဇ်ပေါက် ဟူ၍ငင်း ဆိုရိုးပြုကြသေးသည်။)

ဤ ဝိသဇ္ဇနီကား ပါဠိလို ဗိန္ဒု၊ နိဂ္ဂဟိတ ဖြစ်၏။ မြန်မာ

လိုကား၊ သေးသေးတင်၊ အလုံးကလေး၊ အပေါက်ကလေး၊ အစက်ကလေးဖြစ်၏။ ဆိုရိုးအသုံးပြုရာ၌ အက္ခရာ၏ အထက်က ပေါက်လျှင် (ထားလျှင်) သေးသေးတင်၊ အောက်က ပေါက်လျှင် အောက်မြစ်၊ နောက်က ပေါက်လျှင် ရှေ့ဆည်း ခေါ်သည်။ နောက်က ပေါက်ပါလျက် ရှေ့ဆည်း ခေါ်ခြင်းကား ခရီးသွားရာ၌ ရောက်ပြီးသည်ကို နောက်၊ မရောက်သေးသည်ကိုရှေ့ ခေါ်ဝေါ်သကဲ့သို့ မဂ္ဂဂမ နည်းဖြင့် ခေါ်ဝေါ်ခြင်း ဖြစ်သည်။

ခ ဗျည်း၊ ဂ ဗျည်း စသည်တို့ကို နည်းတူတွဲ၊ နည်းတူ ဆိုရိုးပြု၊ အထူးအားဖြင့် အ—ကား သရသက်သက် နေသောအခါ (အ—အာ) စသည်ဖြစ်၍ ဗျည်းနှင့် တွဲသောအခါ ပျောက်ကွယ်သွားသည်။ ဤ က သင်ပုန်းကြီး၌ အသံပေါင်း ၇၅၉ ဖြစ်သည်။

**ကျ သင်ပုန်းကြီး။** ။က ဗျည်း၊ ခ ဗျည်း စသည်တို့ကို သရနှင့်တွဲသောအခါ(ယ—၂)ဗျည်းကိုထည့်သွင်းတွဲရသည်။

**တွဲပုံ။** ။ကျ၊ ကျာ၊ ကျိ၊ ကျီး၊ ကျု၊ ကျူး၊ ကျေး၊ ကျဲး၊ ကျော့၊ ကျော်၊ ကျံး၊ ကျား။

**ဆိုရိုး။** ။ကကြီးယပင့်ရေး ကျ၊ ကကြီး ယပင့်ရေးချ ကျာ၊ ကကြီး ယပင့်ရေး လုံးကြီးတင် ကျိ၊ ကကြီး ယပင့် ရေး လုံးကြီးတင်ဆံခပ် ကျီ၊ အောက်ကမြစ် ကျီ့၊ ရှေ့က နှစ်လုံးပေါက် ကျီး၊ ကကြီး ယပင့် ရေး တချောင်းငင် ကျု၊ ကကြီး ယပင့် ရေး နှစ်ချောင်းငင် ကျူ၊ အောက်ကမြစ် ကျူ့၊ ရှေ့က နှစ်လုံးပေါက် ကျူး၊ သဝေထိုး ကကြီး ယပင့်ရေး ကျေ။ အောက်ကမြစ် ကျေ့၊ ရှေ့က နှစ်လုံးပေါက် ကျေး၊ ကကြီး ယပင့် ရေး နောက်ပစ် ကျဲ၊ အောက်ကမြစ် ကျဲ့၊ ရှေ့က နှစ်လုံးပေါက် ကျဲး၊ သဝေထိုး ကကြီးယပင့် ရေးချ ကျော၊ အောက်ကမြစ် ကျော့၊ သဝေထိုး ကကြီးယပင့်ရေးချရှေ့ထိုး ကျော်၊ ကကြီးယပင့် ရေး သေးသေးတင် ကျံ၊ အောက်ကမြစ် ကျံ့၊ ရှေ့က နှစ်လုံးပေါက် ကျံး၊ ကကြီး ယပင့် ရေးချ ဝိသဇ္ဇနီ နှစ်လုံးပေါက် ကျား။ (ယခုခေတ် ဆိုရိုးဖြစ်သည်။)

ရှေးခေတ်ဆိုရိုးကား၊ ကကြီးရေး က၊ ယပင့်ကျ၊ ကကြီး ရေးချ ကာ၊ ယပင့် ကျာ စသည်ဖြင့် ခွဲ၍ ဆိုရသည်။

ချ၊ ဂျ၊ ဃျ၊ ပျ၊ ဖျ၊ ဗျ၊ ဘျ၊ မျ၊ လျ တို့ကိုလည်း နည်းတူတွဲ၊ နည်းတူဆိုရိုးပြု။ အထူးအားဖြင့် သင်ပုန်းကြီး စာအုပ်၌ ဃျကို ဖြုတ်ထားသည်။ မဖြုတ်သင့်။ ရှေးဆရာတို့ နည်းအတိုင်း ထားသင့်သည်။ (အသံပေါင်း ၂၃၀)

**ကြ သင်ပုန်းကြီး။** ။က-ခ စသည်ကို သရနှင့်တွဲသောအခါ (ရ—ြ)ဗျည်းကို ထည့်သွင်း၍ တွဲရသည်။

**တွဲပုံ။** ။ကြ၊ ကြာ၊ ကြိ၊ ကြီး၊ ကြု၊ ကြူး၊ ကြေး၊ ကြဲး၊ ကြော့၊ ကြော်၊ ကြံး၊ ကြား။

**ဆိုရိုး။** ။ကကြီးရရစ်ရေး ကြ၊ ကကြီး ရရစ်ရေးချ ကြာ စသည် ပြု။

**ရှေးဆိုရိုး။** ။ကကြီးရေး က၊ ရရစ် ကြ၊ ကကြီး ရေးချ ကာ၊ ရရစ် ကြာ စသည်ဖြစ်၏။

ခြ၊ ဂြ၊ ဃြ၊ ငြ၊ ပြ၊ ဖြ၊ ဗြ၊ ဘြ၊ မြ တို့ကိုလည်း နည်းတူတွဲ၊ နည်းတူ ဆိုရိုးပြု။ ဤ၌လည်း ဃြ ကို ထည့်ပါ။ (အသံပေါင်း ၂၃၀)

**ငှ သင်ပုန်းကြီး။** ။င-ဥ စသည်တို့ကို သရနှင့် တွဲသောအခါ (ဟ—ှ)ဗျည်းကို ထည့်သွင်း၍ တွဲရသည်။

**တွဲပုံ။** ။ငှ၊ ငှာ၊ ငှိ၊ ငှီး၊ ငှု၊ ငှူး၊ ငှေး၊ ငှဲး၊ ငှော့၊ ငှော်၊ ငှံး၊ ငှား။

**ဆိုရိုး။** ။ငဟထိုးရေး ငှ၊ငဟထိုးရေးချ ငှာ စသည်ပြု။

**ရှေးဆိုရိုး။** ။ငရေး င၊ ဟထိုး ငှ၊ င ရေးချ ငါ၊ ဟထိုး ငှာ စသည် ဖြစ်၏။

ညှ၊ ဏှ၊ နှ၊ မှ၊ ယှ၊ ရှ၊ လှ၊ ဝှ၊ ဠှ တို့ကိုလည်း နည်းတူတွဲ၊ နည်းတူ ဆိုရိုးပြု။ ဤ၌လည်း (ဠှ)ထည့်ပါ။ (အသံပေါင်း ၂၃၀)

**မျှ သင်ပုန်းကြီး။** ။မ-လတို့ကို သရနှင့်တွဲသောအခါ (ယ—၂-ဟ—ှ)ဗျည်းတို့ကို ထည့်၍ တွဲရသည်။

**တွဲပုံ။** ။မျှ၊ မျှာ၊ မျှိ၊ မျှီး၊ မျှု၊ မျှူး၊ မျှေး၊ မျှဲး၊ မျှော့၊ မျှော်၊ မျှံး၊ မျှား။

**ဆိုရိုး။** ။မ ယပင့် ဟထိုးရေး မျှ၊ မ ယပင့် ဟထိုး ရေးချ မျှာ စသည် ပြု။

**ရှေးဆိုရိုး။** ။မရေး မ၊ ယပင့် မျ၊ ဟထိုး မျှ၊ မ ရေးချ မာ၊ ယပင့် မျာ၊ ဟထိုး မျှာ စသည် ဖြစ်၏။

လ ကိုလည်း နည်းတူ တွဲ၊ နည်းတူ ဆိုရိုးပြု။ (အသံပေါင်း ၄၆)

**ငြှ သင်ပုန်းကြီး။** ။င-မ တို့ကို သရနှင့်တွဲသောအခါ (ရ-ြ-ဟ-ှ)ဗျည်းတို့ကို ထည့်သွင်း၍ တွဲရသည်။

**တွဲပုံ။** ။ငြှ၊ ငြှာ၊ ငြှိ၊ ငြှီး၊ ငြှု၊ ငြှူး၊ ငြှေး၊ ငြှဲး၊ ငြှော့၊ ငြှော်၊ ငြှံး၊ ငြှား။

**ဆိုရိုး။** ။င ရရစ် ဟထိုးရေး ငြှ၊ င ရရစ် ဟထိုး ရေးချ ငြှာ စသည် ပြု။

**ရှေးဆိုရိုး။** ။ငရေး င၊ ရရစ်ငြ၊ ဟထိုးငြှ၊ ငရေးချငါ၊ ရရစ်ငြာ၊ ဟထိုး ငြှာ စသည် ဖြစ်၏။

မ-ကိုလည်း နည်းတူတွဲ၊ နည်းတူ ဆိုရိုးပြု။ (အသံပေါင်း ၄၆)

**ကွ သင်ပုန်းကြီး။** ။ကွ၊ ကျွ၊ ကြွ၊ ငွှ သင်ပုန်းကြီး လေးမျိုးတို့၌ အ၊အာ၊အိ၊အီး၊အေး၊ အဲး၊ အံး၊ အား ဟူ၍ အကျဉ်းသရ ရှစ်လုံးဖြစ်သည်။ ယင်းကို ဝိသဇ္ဇနီပေါက် သုံးလုံးဖြင့် အသံကို ခွဲဝေသောအခါ အ၊ အာ၊ အိ၊ အီ၊ အီ့၊ အီး၊ အေ၊ အေ့၊ အေး၊ အဲ၊ အဲ့၊ အဲး၊ အံ၊ အံ့၊ အံး၊ အား ဟူ၍ အကျယ်သရ ၁၆ လုံး ဖြစ်လာသည်။

ဝ-ဗျည်းကို ချန်လှပ်၍ ဗျည်း ၃၂ လုံးနှင့် တွဲသောအခါ

အကျဉ်းသရ ရှစ်လုံးနှင့် တွဲ၍ ရေးထားသော်လည်း ဆိုရိုး ပြုသောအခါ အကျယ်သရ ၁၆ လုံးဖြစ်လာသည်။

က-ခ စသည်တို့ကို သရနှင့် တွဲသောအခါ ဝ ဗျည်းကို ထည့်၍ တွဲရသည်။

**တွဲပုံ။** ။ကွ၊ ကွာ၊ ကွိ၊ ကွီး၊ ကွေး၊ ကွဲ၊ ကွံ၊ ကွား၊

**ဆိုရိုး။** ကကြီး ဝဆွဲ ရေး ကွ၊ ကကြီး ဝ ဆွဲရေးချ ကွာ စသည် ပြု။

**ရှေးဆိုရိုး။** ။ကကြီးရေး က၊ ဝဆွဲ ကွ၊ ကကြီး ရေးချ ကာ၊ ဝဆွဲ ကွာ စသည်ဖြစ်၏။

ခ-ဂ စသည်ကိုလည်း နည်းတူ တွဲ၊ နည်းတူ ဆိုရိုးပြု။ (အသံပေါင်း ၅၁၂)

**ကျွ သင်ပုန်းကြီး။** ။က-ခ စသည်တို့ကို သရနှင့်တွဲသောအခါ (ယ-ျ-ဝ)ဗျည်းတို့ကို ထည့်သွင်း၍ တွဲရသည်။

**တွဲပုံ။** ။ကျွ၊ ကျွာ၊ ကျွိ၊ ကျွီး၊ ကျွေး၊ ကျွဲ၊ ကျွံ၊ ကျွား။

**ဆိုရိုး။** ။ကကြီး ယပင့် ဝဆွဲ ကျွ၊ ကကြီး ယပင့် ဝဆွဲ ရေးချ ကျွာ စသည် ပြု။

**ရှေးဆိုရိုး။** ။ကကြီးရေး က၊ ယပင့် ကျ၊ ဝဆွဲ ကျွ၊ ကကြီးရေးချ ကာ၊ ယပင့် ကျာ၊ ဝဆွဲ ကျွာ စသည်ဖြစ်၏။

ချွ၊ ဂျွ၊ ဈွ၊ ပျွ၊ ဖျွ၊ ဗျွ၊ ဘျွ၊ မျွ၊ လျွ စသည်တို့ကိုလည်း နည်းတူ တွဲ၊ နည်းတူ ဆိုရိုးပြု။ (အသံပေါင်း ၁၆၀)

**ကြွ သင်ပုန်းကြီး။** ။က-ခ စသည်တို့ကို သရနှင့် တွဲသောအခါ (ရ-ြ-ဝ)ဗျည်းတို့ကို ထည့်သွင်း၍ တွဲရသည်။

**တွဲပုံ။** ။ကြွ၊ ကြွာ၊ ကြွိ၊ ကြွီး၊ ကြွေး၊ ကြွဲ၊ ကြွံ၊ ကြွား။

**ဆိုရိုး။** ကကြီး ရရစ် ဝဆွဲ ရေး ကြွ၊ ကကြီး ရရစ် ဝဆွဲ ရေးချ ကြွာ စသည်ပြု။

**ရှေးဆိုရိုး။** ။ကကြီးရေးက၊ ရရစ်ကြ၊ ဝဆွဲကြွ၊ ကကြီး ရေးချ ကာ၊ ရရစ် ကြာ၊ ဝဆွဲ ကြွာ စသည်ဖြစ်၏။

ခြွ၊ ဂြွ၊ ဈြွ၊ ပြွ၊ ဖြွ၊ ဗြွ၊ ဘြွ၊ မြွ တို့ကိုလည်း နည်းတူ တွဲ၊ နည်းတူ ဆိုရိုးပြု။ (အသံပေါင်း ၁၄၄)

**ငှွ သင်ပုန်းကြီး။** ။င-ဥ စသည်တို့ကို သရနှင့်တွဲသောအခါ (ဟ-ှ-ွ)ဗျည်းတို့ကို ထည့်သွင်း၍ တွဲရသည်။

**တွဲပုံ။** ။ငှွ၊ ငှွာ၊ ငှွိ၊ ငှွီး၊ ငှွေး၊ ငှွဲး၊ ငှွံး၊ ငှွား။

**ဆိုရိုး။** ။င ဟထိုး ဝဆွဲ ငှွ၊ င ဟထိုး ဝဆွဲ ရေးချ ငှွာ စသည်ပြု။

**ရှေးဆိုရိုး။** ။ငရေး င၊ ဟထိုး ငှ၊ ဝဆွဲ ငှွ စသည်ဖြစ်၏။

ညှွ၊ ဏှွ၊ နှွ၊ မှွ၊ ယှွ၊ ရှွ၊ လှွ၊ ဠှွ တို့ကိုလည်း နည်းတူ တွဲ၊ နည်းတူ ဆိုရိုးပြု။ (အသံပေါင်း ၁၄၄)

**ကက် သင်ပုန်းကြီး။** ။ကက် သင်ပုန်းကြီး ဆယ်မျိုး တို့တွင် ကက်၊ ကျက်၊ ကြက်၊ ငှက်၊ မျက်၊ ငြှက် သင်ပုန်းကြီး ခြောက်မျိုးတို့၌ အက်၊ အင်း၊ အစ်၊ အည်း၊ အတ်၊ အန်း၊ အပ်၊ အမ်း၊ အယ်း၊ အောဝ် ဟူ၍ အကျဉ်းသရ ၁၀ ဖြစ်သည်။

ယင်းကို ဝိသဇ္ဇနီပေါက် သုံးလုံးနှင့် အသံကို ခွဲဝေသော အခါ အက်၊ အင်၊ အင့်၊ အင်း၊ အစ်၊ အည်၊ အည့်၊ အည်း၊ အတ်၊ အန်၊ အန့်၊ အန်း၊ အပ်၊ အမ်၊ အမ့်၊ အမ်း၊ အယ်၊ အယ့်၊ အယ်း၊ အောဝ် ဟူ၍ အကျယ် သရ ၂၀ ဖြစ်လာသည်။

ဗျည်းသုံးဆဲ့သုံးလုံးနှင့် တွဲသောအခါ အကျဉ်းသရ ၁၀ နှင့် ရေးထားသော်လည်း ဆိုရိုးပြုသောအခါ အကျယ်သရ ၂၀ ဖြစ်လာသည်။

**တွဲပုံ။** ။ကက်၊ ကင်း၊ ကစ်၊ ကည်း၊ ကတ်၊ ကန်း၊ ကပ်၊ ကမ်း၊ ကယ်း၊ ကောဝ်။

**ဆိုရိုး။** ။ကကြီးရေး ကသတ် ကက်၊ ကကြီးရေး ငသတ်ကင်၊ အောက်ကမြစ်ကင့်၊ ရှေ့က နှစ်လုံးပေါက် ကင်း၊ ကကြီးရေး စသတ် ကစ်၊ ကကြီးရေး ညသတ် ကည်၊အောက်ကမြစ် ကည့်၊ ရှေ့က နှစ်လုံးပေါက် ကည်း၊ ကကြီးရေး တသတ် ကတ်၊ ကကြီးရေး နသတ် ကန်၊ အောက်ကမြစ် ကန့်၊ ရှေ့က နှစ်လုံးပေါက် ကန်း၊ ကကြီးရေး ပသတ် ကပ်၊ ကကြီးရေး မသတ် ကမ်၊ အောက်ကမြစ် ကမ့်၊ ရှေ့က နှစ်လုံးပေါက် ကမ်း၊ ကကြီးရေး ယသတ် ကယ်၊ အောက်ကမြစ် ကယ့်၊ ရှေ့က နှစ်လုံးပေါက် ကယ်း၊ သဝေထိုး ကကြီးရေးချ ဝသတ် ကောဝ်။

ခ၊ ဂ စသည်တို့ကိုလည်း နည်းတူ တွဲ၊ နည်းတူ ဆိုရိုးပြု။ (အသံပေါင်း ၆၆၀)

**ကျက် သင်ပုန်းကြီး။** ။ကျက်၊ ကြက်၊ ငှက်၊ မျက်၊ ငြှက်၊ သင်ပုန်းကြီးတို့ကို အကျဉ်းချုံး၍ ရေးပါအံ့။ ကက် သင်ပုန်းကြီးကို နည်းမှီးလေ။

ကျက်၊ ချက်၊ ဂျက်၊ ဈျက်၊ ပျက်၊ ဖျက်၊ ဗျက်၊ ဘျက်၊ မျက်၊ လျက် စသည် တွဲ။

ကကြီး ယပင့်ရေး ကသတ် ကျက်၊ သို့မဟုတ် ကကြီးရေး ကသတ် ကက်၊ ယပင့် ကျက် စသည် ဆိုရိုးပြု။ (အသံပေါင်း ၂၀၀)

**ကြက် သင်ပုန်းကြီး။** ။ကြက်၊ ခြက်၊ ဂြက်၊ ဈြက်၊ ငြှက်၊ ပြက်၊ ဖြက်၊ ဗြက်၊ ဘြက်၊ မြက် စသည် တွဲ။

ကကြီး ရရစ်ရေး ကသတ် ကြက်၊ သို့မဟုတ် ကကြီးရေး ကသတ် ကက်၊ ရရစ် ကြက် စသည် ဆိုရိုးပြု။ (အသံပေါင်း ၂၀၀)

**ငှက် သင်ပုန်းကြီး။** ။ငှက်၊ ဉှက်၊ ဏှက်၊ နှက်၊ မှက်၊ ယှက်၊ ရှက်၊ လှက်၊ ဝှက်၊ ဠှက် စသည် တွဲ။

ငဟထိုး ရေး ကသတ် ငှက်၊ သို့မဟုတ် င ရေး ကသတ် ငက်၊ ဟထိုး ငှက် စသည် ဆိုရိုးပြု။ (အသံပေါင်း ၂၀၀)

**မျက် သင်ပုန်းကြီး။** ။မျက်၊လျက် စသည် တွဲ။မယပင့် ဟထိုး ရေး ကသတ် မျက်၊ သို့မဟုတ် မရေး ကသတ် မက်၊ ယပင့် မျက်၊ဟထိုး မျက် စသည် ဆိုရိုးပြု။ (အသံပေါင်း၄၀)

**ငြှက် သင်ပုန်းကြီး**။ ။ငြှက်၊ မြှက် စသည် တွဲ။ င ရရစ် ဟထိုးရေး ကသတ် ငြှက်၊ သို့မဟုတ် င ရေး ကသတ် ငက်၊ ရရစ် ငြက်၊ ဟထိုး ငြှက် စသည် ဆိုရိုးပြု။ (အသံပေါင်း၄၀)

**ကွက် သင်ပုန်းကြီး**။ ။ကွက်၊ ကျွက်၊ ကြွက်၊ ငွက် သင်ပုန်းကြီး လေးမျိုးတို့၌ အက်၊ အင်း၊ အစ်၊ အည်း၊ အတ်၊အန်း၊အပ်၊ အမ်း၊ အယ်း ဟူ၍ အကျဉ်း သရ ကိုးလုံး။ အက်၊ အင်၊ အင့်၊ အင်း၊ အစ်၊ အည်၊ အည့်၊ အည်း၊ အတ်၊ အန်၊ အန့်၊ အန်း၊ အပ်၊ အမ်၊ အမ့်၊ အမ်း၊ အယ်၊ အယ့်၊ အယ်း ဟူ၍ အကျယ်သရ ၁၉ လုံး ဖြစ်သည်။

က-ခ စသည်တို့ကို သရနှင့် တွဲသောအခါ ဝ ဗျည်းကို ထည့်သွင်း၍ တွဲရသည်။

**တွဲပုံ**။ ။ကွက်၊ ကွင်း စသည် ကွယ်းကျအောင် တွဲ။ ကကြီး ဝဆွဲရေး ကသတ် ကွက်၊သို့မဟုတ် ကကြီးရေး ကသတ် ကက်၊ ဝဆွဲ ကွက် စသည် ဆိုရိုးပြု။ (အသံပေါင်း ၆၀၇)

**ကျွက် သင်ပုန်းကြီး**။ ။ကျွက်၊ ချွက်၊ ဂျွက်၊ ဈွက်၊ ပျွက်၊ ဖျွက်၊ ဗျွက်၊ ဘျွက်၊ မျွက်၊ လျွက် စသည် တွဲ။ ကကြီး ယပင့် ဝဆွဲရေး ကသတ် ကျွက်၊ သို့မဟုတ် ကကြီးရေး ကသတ် ကက်၊ ယပင့် ကျက်၊ ဝဆွဲ ကျွက် စသည် ဆိုရိုးပြု။ (အသံပေါင်း ၁၉၀)

**ကြွက် သင်ပုန်းကြီး**။ ။ကြွက်၊ ခြွက်၊ဂြွက်၊ ဃြွက်၊ ပြွက်၊ ဖြွက်၊ဗြွက်၊ ဘြွက်၊ မြွက် စသည် တွဲ၊ ကကြီးရရစ် ဝဆွဲရေး ကသတ် ကြွက်၊ သို့မဟုတ် ကကြီးရေး ကသတ် ကက်၊ ရရစ် ကြက်၊ ဝဆွဲ ကြွက် စသည် ဆိုရိုးပြု။ (အသံပေါင်း ၁၇၁)

**ငွက် သင်ပုန်းကြီး**။ ။ငွှက်၊ ညွှက်၊ ဏွှက်၊ နွှက်၊ မွှက်၊ ယွှက်၊ ရွှက်၊ လွှက်၊ ငွှက် စသည် တွဲ။ င ဟထိုး ဝဆွဲရေး ကသတ် ငွှက်၊ သို့မဟုတ် င ရေး ကသတ် ငက်၊ ဟထိုး ငှက်၊ ဝဆွဲ ငွှက် စသည် ဆိုရိုးပြု။ (အသံပေါင်း ၁၇၁)

**ကိတ် သင်ပုန်းကြီး**။ ။ကိတ်သင်ပုန်းကြီး ဆယ်မျိုးတို့တွင် ကိတ်၊ ကျိတ်၊ ကြိတ်၊ ငှိတ်၊ မြှိတ်၊ ငြှိတ် သင်ပုန်းကြီး ခြောက်မျိုးတို့၌ အိတ်၊ အိန်း၊ အိပ်၊ အိမ်း၊ အုတ်၊ အုန်း၊ အုပ်၊ အုမ်း၊ အောက်၊ အောင်း၊ အိုက်၊ အိုင်း၊ အိုဝ်း၊ အုံမ်း၊ ဟူ၍ အကျဉ်းသရ ၁၄ လုံးဖြစ်သည်။

ယင်းကို ဝိသဇ္ဇနီပေါက် သုံးလုံးဖြင့် အသံကို ခွဲဝေသောအခါ အိတ်၊ အိန်၊ အိန့်၊ အိန်း၊ အိပ်၊ အိမ်၊ အိမ့်၊ အိမ်း၊ အုတ်၊ အုန်၊ အုန့်၊ အုန်း၊ အုပ်၊ အုမ်၊ အုမ့်၊ အုမ်း၊ အောက်၊ အောင်၊ အောင့်၊ အောင်း၊ အိုက်၊ အိုင်၊ အိုင့်၊ အိုင်း၊ အိုဝ်၊ အိုဝ့်၊ အိုဝ်း၊ အုံမ်၊ အုံမ့်၊ အုံမ်း ဟူ၍ အကျယ် သရ ၃၀ ဖြစ်လာသည်။

ဗျည်း သုံးဆဲ့သုံးလုံးနှင့် တွဲသောအခါ အကျဉ်း သရ တဆဲလေးလုံးနှင့် တွဲ၍ ရေးထားသော်လည်း ဆိုရိုးပြုသောအခါ အကျယ်သရ ၃၀ ဖြစ်လာသည်။

**တွဲပုံ**။ ။ကိတ်၊ ကိန်း၊ ကိပ်၊ ကိမ်း၊ ကုတ်၊ ကုန်း၊ ကုပ်၊ ကုမ်း၊ ကောက်၊ ကောင်း၊ ကိုက်၊ ကိုင်း၊ ကိုဝ်း၊ ကုံမ်း။

**ဆိုရိုး**။ ။ကကြီးရေး လုံးကြီးတင်တသတ်ကိတ်၊ကကြီးရေး လုံးကြီးတင် နသတ် ကိန်၊ အောက်ကမြစ် ကိန့်၊ ရှေ့က နှစ်လုံးပေါက် ကိန်း၊ ကကြီးရေး လုံးကြီးတင် ပသတ် ကိပ်၊ ကကြီးရေး လုံးကြီးတင် မသတ် ကိမ်၊ အောက်ကမြစ် ကိမ့်၊ ရှေ့ကနှစ်လုံးပေါက်ကိမ်း၊ ကကြီးရေးတချောင်းငင် တသတ် ကုတ်၊ ကကြီးရေး တချောင်းငင် နသတ် ကုန်၊ အောက်ကမြစ် ကုန့်၊ ရှေ့က နှစ်လုံးပေါက် ကုန်း၊ ကကြီး ရေး တချောင်းငင် ပသတ် ကုပ်၊ ကကြီးရေး တချောင်းငင် မသတ် ကုမ်၊ အောက်ကမြစ် ကုမ့်၊ ရှေ့ကနှစ်လုံးပေါက် ကုမ်း၊ သဝေထိုး ကကြီးရေးချ ကသတ် ကောက်၊ သဝေထိုး ကကြီးရေး ချ ငသတ် ကောင်၊ အောက်ကမြစ် ကောင့်၊ ရှေ့က နှစ်လုံးပေါက် ကောင်း၊ ကကြီးရေး လုံးကြီးတင် တချောင်းငင် ကသတ် ကိုက်၊ ကကြီးရေး လုံးကြီးတင် တချောင်းငင် ငသတ် ကိုင်၊ အောက်ကမြစ် ကိုင့်၊ ရှေ့က နှစ်လုံးပေါက် ကိုင်း၊ ကကြီးရေး လုံးကြီးတင် တချောင်းငင် ဝသတ် ကိုဝ်၊ အောက်ကမြစ် ကိုဝ့်၊ ရှေ့က နှစ်လုံးပေါက် ကိုဝ်း၊ ကကြီးရေး သေးသေးတင် တချောင်းငင် မသတ် ကုံမ်၊ အောက်ကမြစ် ကုံမ့်၊ ရှေ့က နှစ်လုံးပေါက် ကုံမ်း။

ခ - ဂ စသည်ကို နည်းတူ တွဲ၊ နည်းတူ ဆိုရိုးပြု။ (အသံပေါင်း ၉၉၀)

**ကျိတ် သင်ပုန်းကြီး**။ ။ကျိတ်၊ ချိတ်၊ ဂျိတ်၊ ဈိတ်၊ ပျိတ်၊ ဖျိတ်၊ ဗျိတ်၊ ဘျိတ်၊ မျိတ်၊ လျိတ် စသည် တွဲ။

ကကြီးယပင့်ရေး လုံးကြီးတင် တသတ် ကျိတ်၊သို့မဟုတ် ကကြီးရေး လုံးကြီးတင် တသတ် ကိတ်၊ ယပင့် ကျိတ်စသည် ဆိုရိုးပြု။ (အသံပေါင်း ၃၀၀)

**ကြိတ် သင်ပုန်းကြီး**။ ။ကြိတ်၊ခြိတ်၊ဂြိတ်၊ဃြိတ်၊ငြိတ်၊ ပြိတ်၊ ဖြိတ်၊ ဗြိတ်၊ ဘြိတ်၊ မြိတ် စသည်တွဲ။ ဆိုရိုးပြု။ (အသံပေါင်း ၃၀၀)

**ငှိတ် သင်ပုန်းကြီး**။ ။ငှိတ်၊ ညှိတ်၊ ဏှိတ်၊ နှိတ်၊ မှိတ်၊ ယှိတ်၊ ရှိတ်၊ လှိတ်၊ ဝှိတ်၊ ငွှိတ် စသည် တွဲ။ ဆိုရိုးပြု။ (အသံပေါင်း ၃၀၀)

**မျှိတ် သင်ပုန်းကြီး**။ ။မျှိတ်၊ လျှိတ် စသည်တွဲ။ ဆိုရိုးပြု။ (အသံပေါင်း ၆၀)

**ငြှိတ် သင်ပုန်းကြီး**။ ။ငြှိတ်၊ မြှိတ် စသည် တွဲ။ ဆိုရိုးပြု။ (အသံပေါင်း ၆၀)

**ကွိတ် သင်ပုန်းကြီး**။ ။ကွိတ်၊ ကျွိတ်၊ ကြွိတ်၊ ငွှိတ်၊ သင်ပုန်းကြီး ၈လေးမျိုးတို့၌ အိတ်-အိန်း-အိပ်-အိမ်း-အိုက်-အိုင်း ဟူ၍ အကျဉ်း သရ ခြောက်လုံး။ ။အိတ် - အိန် - အိန့် - အိန်း၊ အိပ် - အိမ် - အိမ့် - အိမ်း၊ အိုက် - အိုင် - အိုင့် - အိုင်း ဟူ၍ အကျယ်သရ ၁၂ လုံးဖြစ်သည်။

က - ၁ စသည်တို့ကို သရနှင့်တွဲသောအခါ ဝ ဗျည်းကို ထည့်သွင်း၍ တွဲရသည်။

ကွိတ်- ကွိန်း ကွိပ်- ကွိမ်း၊ ကွိုက်- ကွိုင်း စသည် တွဲ။ ကကြီးဝဆွဲရေး လုံးကြီးတင် တသတ် ကွိတ်၊ သို့မဟုတ် က ကြီးရေး လုံးကြီးတင် တသတ် ကိတ်၊ ဝဆွဲ ကွိတ် စသည် ဆိုရိုးပြု။ (အသံပေါင်း ၃၀၄)

**ကျိတ် သင်ပုန်းကြီး။** ။ကျိတ်၊ ချိတ်၊ ဂျိတ်၊ ဈိတ်၊ ပျိတ်၊ ဖျိတ်၊ ဗျိတ်၊ ဘျိတ်၊ မျိတ် စသည် တွဲ။ ဆိုရိုးပြု။ (အသံပေါင်း ၁၀၈)

**ကြိတ် သင်ပုန်းကြီး။** ။ကြိတ်၊ခြိတ်၊ဂြိတ်၊ဃြိတ်၊ပြိတ်၊ ဖြိတ်၊ဗြိတ်၊ဘြိတ်၊မြိတ် စသည် တွဲ။ ဆိုရိုးပြု။ (အသံပေါင်း ၁၀၈)

**ငှိတ် သင်ပုန်းကြီး။** ။ငှိတ်၊ ညှိတ်၊ ဏှိတ်၊ နှိတ်၊ မှိတ်၊ ယှိတ်၊ ရှိတ်၊ လှိတ်၊ ဠှိတ် စသည် တွဲ။ ဆိုရိုးပြု။ (အသံ ပေါင်း ၁၀၈)

ဤသင်ပုန်းကြီးကား သိသာရုံ အကျဉ်းချုပ်မျှ ဖြစ် သည်။ အကျယ်ကိုလိုလျှင် ကမချ သင်ပုန်းကြီး၊ ကက် သင် ပုန်းကြီး၊ ကိတ် သင်ပုန်းကြီးတို့ကို နည်းမှီး၍ ချဲ့ပါလေ။

ဤသင်ပုန်းကြီး၌ အသံပေါင်း၊ သို့မဟုတ် စာလုံးပေါင်း (၇,၆၉၉) ရှိသည်။

အထူးအားဖြင့် လယ်တီဆရာတော်ကြီး၏ သင်ပုန်းကြီး သံဃိပ်၌ကား သင်ပုန်းကြီးတွင် သုံးရန် သရအတွက်–

အော့၊ အော။ တို့ကိုရှင်း၊ နသတ်၊ မသတ်မပါသော အိံ အိံ့ - အိံး၊ အုံ-အုံ့-အုံး တို့ကိုရှင်း၊

ဝသတ် မပါသော အော့်-အော်၊ အို-အို့-အိုးတို့ကိုရှင်း ထည့်သွင်းထားသည်။

ထိုပြင် အဏ္ဍ-အဏ် အဏ့်-အဏ်း တို့ကိုရှင်း၊ အိဏ္ဍ-အိဏ် အိဏ့်-အိဏ်း တို့ကိုရှင်း၊ အုဏ္ဍ-အုဏ်-အုဏ့်-အုဏ်း တို့ကိုရှင်း၊ အောဉ်-အောဉ်-အောဉ့်-အောဉ်း တို့ကိုရှင်း၊ အိုဉ်-အိုဉ်-အိုဉ့်-အိုဉ်း တို့ကိုရှင်း ထည့်သွင်းထားသည်။

ဗျည်းအတွက်လည်း တျ၊ထျ၊ဒျ၊နျ၊သျ၊ဟျ တို့ကိုရှင်း၊ တြ၊ထြ၊ ဒြ၊နြ၊သြ၊ဟြတို့ကိုရှင်း ထည့်သွင်းထားသည်။

ထိုသို့ ထည့်သွင်းထားသော်လည်း ရှေးဆရာကြီးတို့သင် ရိုးဖြစ်သော သင်ပုန်းကြီး မူဟောင်း၌ ထည့်သွင်းထားခြင်း မရှိသောကြောင့် ချန်လှပ်ထားခဲ့သည်။

ကာရန် (၇၃) ယေား

| စဉ် | အသံစဉ် | အကြောင်းအရာ |
|---|---|---|
| ၁ | အ | |
| ၂ | အာ | |
| ၃ | အား | |
| ၄ | အံ | |
| ၅ | အိ | ကာရန် ၆၄ ၌မပါ |
| ၆ | အီ | |
| ၇ | အီး | |
| ၈ | အု | |
| ၉ | အူ့ | ကာရန် ၆၄ ၌မပါ |
| ၁၀ | အူ | |
| ၁၁ | အူး | |
| ၁၂ | အေ | |
| ၁၃ | အေ့ | |
| ၁၄ | အေး | |
| ၁၅ | အဲ | |
| ၁၆ | အဲ့ | |
| ၁၇ | အဲး | |
| ၁၈ | အယ် | ကာရန် ၆၄ ၌မပါ |
| ၁၉ | အယ့် | ကာရန် ၆၄ ၌မပါ |
| ၂၀ | အယ်း | ကာရန် ၆၄ ၌မပါ |
| ၂၁ | အော် | |
| ၂၂ | အောဝ် | ကာရန် ၆၄ ၌မပါ |
| ၂၃ | အော့ | |
| ၂၄ | အော | |
| ၂၅ | အက် | |
| ၂၆ | အိုက် | |
| ၂၇ | အောက် | |
| ၂၈ | အင် | |
| ၂၉ | အင့် | |
| ၃၀ | အင်း | |
| ၃၁ | အိုင် | |
| ၃၂ | အိုင့် | |
| ၃၃ | အိုင်း | |
| ၃၄ | အောင် | |
| ၃၅ | အောင့် | |
| ၃၆ | အောင်း | |
| ၃၇ | အစ် | |
| ၃၈ | အည် | |
| ၃၉ | အည့် | |
| ၄၀ | အည်း | |
| ၄၁ | အတ် | |
| ၄၂ | အိတ် | |
| ၄၃ | အုတ် | |
| ၄၄ | အန် | |
| ၄၅ | အန့် | |
| ၄၆ | အန်း | |

၄၇ အိန်
၄၈ အိန့်
၄၉ အိန်း
၅၀ အုန်
၅၁ အုန့်
၅၂ အုန်း
၅၃ အပ်
၅၄ အိပ်
၅၅ အုပ်
၅၆ အံ ⎫
၅၇ အံ့ ⎬— ကာရန် ၆၄ ၌မပါ
၅၈ အံး ⎭
၅၉ အမ်
၆၀ အမ့်
၆၁ အမ်း
၆၂ အိမ်
၆၃ အိမ့်
၆၄ အိမ်း
၆၅ အုမ်
၆၆ အုမ့်
၆၇ အုမ်း
၆၈ အုံမ် ⎫
၆၉ အုံမ့် ⎬— ကာရန် ၆၄ ၌မပါ
၇၀ အုံမ်း ⎭
၇၁ အိုဝ်
၇၂ အိုဝ့်
၇၃ အိုဝ်း

ဤကာရန် ၇၃ ကား သင်ပုန်းကြီး တကျမ်းလုံးကို အကျဉ်းချုံးထားသော ကာရန် ဖြစ်သည်။ (သို့မဟုတ်) သရသံများ ဖြစ်သည်။ ဦးကြီးဖေ

**သင်းခွေချပ်။** ။သင်းခွေချပ်သည် အမေရိကတိုက်တွင် တွေ့ရသော မျောက်ပျင်း၊ ပရွက်စားကောင်နှင့် အာမာဒီလိုကောင်တို့နှင့်အတူ ဖော်လီဒိုးတား မျိုးစဉ်ဝင် သွားမရှိသည့် နို့တိုက်သတ္တဝါချင်း တူသော်လည်း မျိုးရင်းကားမတူချေ။ သင်းခွေချပ်သည် မင်နီဒီး မျိုးရင်းတွင် ပါဝင်၍ ပါဏဗေဒ အလိုအရ မေနစ် ကရပ်စီကော်ဒေးတားဟု ခေါ်သည်။ သင်းခွေချပ်များကို မြန်မာနိုင်ငံ အပါအဝင် အရှေ့တောင်အာရှ၊ အရှေ့အိန္ဒိယကျွန်းစုနှင့် အာဖရိကတိုက်ရှိ ဆဟားရား သဲကန္တာရ တောင်ပိုင်းဒေသများတွင် တွေ့ရသည်။ သင်းခွေချပ်သည် ဦးခေါင်းမှ ကိုယ်ထည်အထိ အမြီးမပါပဲ နှစ်ပေမှ နှစ်ပေခွဲအထိ ရှည်၍ အမြီးသပ်သပ်သည်



သင်းခွေချပ်

တပေခွဲရှည်သည်။ သင်းခွေချပ် အမျိုးမျိုးရှိရာ၌ အချို့အမျိုးတွင် အမြီးသည် ကိုယ်ထည်တခုလုံးထက် တို၍ အချို့အမျိုးတွင် နှစ်ဆမျှ ရှည်သည်လည်း ရှိတတ်သည်။ သင်းခွေချပ်၏ ဝမ်းပိုက်ပိုင်းမှတပါး အခြား ကိုယ်ထည်တခုလုံးသည် အိမ်အမိုးတွင် အုတ်ကြွပ်ပြားများ မိုးထားဘိသကဲ့သို့ မာကျောသော အကြေးခွံကြီးများဖြင့် တခုနှင့်တခု အနားချင်း ထပ်ကာ ဖုံးအုပ်လျက် ရှိနေလေသည်။ အရောင်မှာ အညိုရင့်ရောင် ဖြစ်သည်။ နှာတံရှည်၍ ချွန်သည်။ အပြင်သို့ထုတ်နိုင်သော ရှည်၍ စေးကပ်သည့် လျှာလည်းရှိသည်။ ခြေလက် တိုသည်။

သင်းခွေချပ်သည် မိမိကိုယ်မိမိ ခုခံကာကွယ်သည့် အခါ တကိုယ်လုံးကို ဘောလုံးကဲ့သို့ လုံးနေအောင် ကွေးလိုက်ရာ တော်ရုံအားဖြင့် ပြန်၍ မဆန့်နိုင်ချေ။ အကြေးခွံများသည် အကာအကွယ် လက်နက်သဖွယ် ကြွကြွခံနိုင်လေသည်။ဝမ်း

ပိုက်ပိုင်းတွင် အမွေးကြမ်းများ ကျိုးတိုးကျဲတဲ ပေါက်၍ အကြေးခွံများကြားတွင်လည်း အနည်းငယ်စီ ရှိကြသည်။

သင်းခွေချပ်များသည် များသောအားဖြင့် မြေတွင်း အောင်း၍ နေကြပြီးလျှင် ခြနှင့် ပရွက်ဆိတ်တောင်ပို့များ ကိုတူးကာ ခြ၊ ပရွက်ဆိတ်နှင့် ယင်းတို့၏ဥများကိုသာ အမိ ကထား၍ စားသောက်ကြသည်။ ဤသို့ တောင်ပို့များကို တူးနိုင်ရန် ရှည်၍ အနည်းငယ်ကောက်နေသော လက်သည်း ခြေသည်းများ ရှိသည်။ မြေတူးရာ၌ ရှေ့လက်ဖြင့် တူးသော ကြောင့် ရှေ့လက်သည်းများသည် နောက်ခြေသည်းများ ထက် ရှည်သည်။ ခြတောင်ပို့တခုကို တွေ့သည့်အခါ ရှေ့ လက်ရှိ သန်မာသောလက်သည်းများနှင့် ပြိုအောင် ဖြိုပြီး လျှင် ခြအုံရှိရာတွင်းထဲသို့ ချွန်နေသော နှာတံကို ထိုးသွင်း၍ စေးကပ်လျက်ရှိသော လျှာရှည်ဖြင့် လျက်ကာ လျက်ကာ ခြများကို မျိုသွင်းလေသည်။

လမ်းလျှောက်သည့်အခါသင်းခွေချပ်သည်ခါးကိုအနည်း ငယ် ကုံးထားပြီးလျှင် အမြီးကို ထောင်ထားတတ်သည်။ နောက်ခြေများဖြင့် ပတတ်ရပ်၍ အဖက်ဖက်သို့ ကြည့်နိုင် သည်။ သင်းခွေချပ်သည် မြေကြီးပေါ်၌ ကျက်စားလေ့ရှိ သော်လည်း သစ်ပင်ပေါ်သို့လည်း အလွယ်တကူ တက်နိုင် သည်။ သစ်ပင်ပေါ်၌လည်း ပရွက်ဆိတ်များကို လိုက်လံ စားသည်။သစ်ပင်တက်ရာ၌ ဝက်ဝံကဲ့သို့ ရှေ့လက်သည်းများ နှင့် ကုပ်တွယ်၍ ဖက်တက်သည့်ပြင် အမြီးဖြင့်လည်း သစ် ကိုင်းတွင် လိမ်ထားသေးသည်။ သင်းခွေချပ်၏ မျက်စိများ သည် ငယ်၍ နားရွက်မှာ မရှိသလောက် ဖြစ်သဖြင့် အမြင် မသန်သည့်အပြင် ကောင်းကောင်းလည်း မကြားချေ။

အရှေ့တောင် အာရှ တိုင်းပြည်များတွင် တွေ့ရသော သင်းခွေချပ်များသည် ညဉ့်အခါမှသာ တွင်းမှထွက်၍ သွား လာ ကျက်စားတတ်သောကြောင့် နေ့တွင် တွေ့ရခဲသည်။ နေ့အချိန်၌ကား မြေတွင်းတွင် ဖြစ်စေ၊ ကျောက်တုံး ကျောက်ဆောင်များ ကြားတွင် ဖြစ်စေ ကွေး၍နေတတ် ကြသည်။ အိပ်သည့်အခါ ဦးခေါင်းကို လုံးအောင်ကွေးထား သည့် ရှေ့ခြေများနှင့် အမြီးကြားတွင် ထား၍ အိပ်သည်။

မွေးခါစ သင်းခွေချပ်ကလေးများသည် အကြီးမြန်၍ အကြေးခွံများမှာ ပျော့နေသည်။ ၁ဂ လက်မခန့် ရှည် သော သင်းခွေချပ် သားငယ်ကလေးသည် အမိနို့ရည်ကို စို့ရင်း လေးလအတွင်း အလေးချိန် နှစ်ဆအထိတိုးလာလေ သည်။ မိခင် သင်းခွေချပ်သည် သားကလေးအား အမြီး ပေါ်တင်၍ သွားရာသို့ သယ်ဆောင်သွားလေ့ရှိသည်။ သား ငယ်ကလည်း မိခင်၏ အမြီးတွင် ကန့်လန့်ဖြတ်ထိုင်၍ လက် သည်းများဖြင့် ကုပ်တွယ်ထားသည်။ အကြောင်း တခုခု ကြောင့် ထိတ်ထိတ်လန့်လန့် ဖြစ်ခဲ့သော် မိခင်သည် လုံး အောင်ကွေးလိုက်ပြီးလျှင် သားငယ်ကို ရင်ခွင်တွင်ထား၍ ကာကွယ် စောင့်ရှောက်တတ်သည်။ သင်းခွေချပ် အသား သည် အလွန်ကောင်းသည်ဆိုကာ အချို့လူများ ကြိုက်နှစ် သက်ကြသည်။

**သဘော်။** ။သဘော်ဟု ဆိုရာ၌ ရေနက်တွင် သွားလာ နိုင်သော ရေယာဉ်အကြီးစားများကို ဆိုလို၍ ရှေးက ပေါ်ခဲ့သော ရွက်လှေကြီးများမှ အစ ယခုခေတ်ပေါ် ရေနွေးငွေ့စက်၊သို့မဟုတ်မော်တော်စက် စသည်တို့ဖြင့် ခုတ် မောင်းသော ပင်လယ်ကူးသဘော်ကြီးများအထိ ပါဝင် သည်။ လူတို့၏ အသုံးလိုမှု ကိစ္စကို လိုက်၍၎င်း၊ လူတို့၏ ပညာဗဟုသုတ တိုးတက်မှုကို လိုက်၍၎င်း လူတို့၏ အသုံး အဆောင် ပရိဘောဂတို့သည် တမျိုးထက်တမျိုး တခေတ် ထက် တခေတ် သာလွန်ကောင်းမွန် လာရမြဲ ဖြစ်သည့် အတိုင်း ရေနက်သွား ပင်လယ်ကူးသဘော်များသည်လည်း ရှေးခေတ်မှစ၍ တဖြည်းဖြည်း ထူးခြား တိုးတက်လာသည် ကို တွေ့ရပေသည်။

သဘော်များကို အီဂျစ်လူမျိုးတို့က စတင်၍ ဆောက် လုပ်ခဲ့ကြသည်ဟု ဆိုသည်။ လွန်ခဲ့သော နှစ်ပေါင်း ၆,၀၀၀ ခန့်က အီဂျစ်လူမျိုးတို့တွင် ခရီးသည် ၅၀ ခန့် တင်ဆောင် နိုင်သော သဘော်များ ရှိခဲ့ဘူးသည်။ သို့သော် ထိုသဘော် များမှာ သစ်သားဖြင့် တည်ဆောက်ထားသော ရွက် သဘော်များသာ ဖြစ်ကြ၏။ ၁၉ ရာစုနှစ် အစလောက်တွင် မှ ခေတ်မှီသဘော်သစ်များ ပေါ်ပေါက်လာခဲ့ခြင်း ဖြစ်လေ သည်။ ခေတ်မှီ သဘော်များတွင် လေကိုအားကိုးရသော ရွက်များအစား ရေနွေးငွေ့ဖြင့် ခုတ်မောင်းသော စက်များ ကို တပ်ဆင်လာကြသည်။ သစ်သားနှင့် ဆောက်လုပ်ခဲ့ရာမှ သံဖြင့်၎င်း၊ ထိုနောက် သံထက်ပို၍ ခိုင်ခံ့သော သံမဏိဖြင့် ၎င်း ဆောက်လုပ်လာကြလေသည်။

ရှေးက ရွက်သဘော်များကို ကုန်များများ တင်ဆောင် နိုင်ရေးအတွက်သာ ဂရုပြု၍ ဆောက်လုပ် ခဲ့ကြသဖြင့် အသွားနှေးကြသည်။ ထို့ကြောင့် ခရီးဝေးမှ တင်ဆောင် လာသော ကုန်စိမ်းများ မကြာခဏပင် ပုပ်သိုးသွားတတ် ကြ၏။ ထိုအတွက် အမြန်သွားလာနိုင်မည့် ရွက်သဘော် များကို တည်ဆောက်ရန် ကြံစည်ရာမှ ကိုယ်လုံးသေး၍ အလျားရှည်ကာ ရွက်ပေါင်းများစွာ တပ်ဆင်ပေးထား သော ရွက်သဘော်များ ပေါ်လာကြပြန်သည်။

တဆဲ့ရှစ်ရာစုနှစ် ကုန်ခါနီး အချိန်သို့ ရောက်လာသော အခါ သဘော်များကို ရွက်နှင့် လှော်မည့်အစား ရေနွေးငွေ့ စက်ဖြင့် ခုတ်မောင်းနိုင်မည့် နည်းများကို စမ်းသပ်လာ ကြလေသည်။ထိုစမ်းသပ်ချက်များကား ရွက်သဘော်ခေတ် မှ မီးသဘော်ခေတ်သို့ ပြောင်းပေးမည့် ရှေ့ပြေး အရိပ် အယောင်ပင် ဖြစ်တော့၏။ ထိုသို့ စမ်းသပ်ခဲ့ရာမှ

၁၉ ရာစုနှစ်သို့ အဝင် ၁၈၁၉ ခုနှစ်တွင် ရေနွေးငွေ့စက်ဖြင့် ခုတ်မောင်းသော သင်္ဘောတစင်းသည် ပဌမဦးစွာ အတ္တလန္တိတ် သမုဒ္ဒရာကို ဖြတ်ကျော်နိုင်ခဲ့လေသည်။ ထိုသင်္ဘောမှာ အမေရိကန်နိုင်ငံတွင် ဆောက်လုပ်သော ဆာဗန်းနား ဖြစ်၍ အမေရိကန်နိုင်ငံ ဆာဗန်းနားမြို့မှ အင်္ဂလန်နိုင်ငံ လစ်ဗားပူးမြို့အရောက် ၂၅ ရက်ဖြင့် ခုတ်မောင်းခဲ့၏။ ရေနွေးငွေ့စက် တပ်ဆင်ထားသော်လည်း စက်ကို ရံဖန်ရံခါသာဖွင့်၍ ရွက်ကိုသာ အသုံးများခဲ့ပေသည်။ သို့ရာတွင် ရေနွေးငွေ့ စက်ကို သုံးရာ၌ ထင်းမီး *အဆမတန်ကုန်၍ စရိတ်ကြီးလေးသဖြင့် ထင်းမီး အကုန်နည်းမည့် နည်းလမ်းများကို ရှာကြံတီထွင်ရန် အမျိုးမျိုး စိတ်ကူးကြရ ပြန်လေသည်။

ဤသို့ ကြံစည်ရာမှ ထင်းမီး အကုန်သက်သာစွာနှင့် ခုတ်မောင်းနိုင်သည့် ရေနွေးငွေ့စက်ကို တီထွင် နိုင်လာလေရာ ၁၈၃၈ ခုနှစ်တွင် လန်ဒန်မြို့မှ ထွက်ခွာလာသော ဆားရီးယပ် အမည်ရှိ သင်္ဘောတစင်းသည် နယူးယော့မြို့သို့ ၁၇ ရက်နှင့် ခုတ်မောင်းလာသဖြင့် လူတိုင်းကပင် အံ့သြ၍မဆုံး ဖြစ်ကြရလေသည်။ ထိုသင်္ဘောသည် တလမ်းလုံးတွင် ရေနွေးငွေ့စက်ဖြင့်သာ ခုတ်မောင်းခဲ့ခြင်း ဖြစ်၏။ ထိုအချိန်မှစ၍ ရေနွေးငွေ့ စက်ဖြင့် မောင်းနှင်သော ပင်လယ်ကူး သင်္ဘောများ တဖြည်းဖြည်း ပေါ်ပေါက်များပြားလာရာ နှစ်ပေါင်းများစွာ မကြာမီပင် ကမ္ဘာအရပ်ရပ်ရှိ ပင်လယ်သမုဒ္ဒရာများ၌ ခေါက်တုံ့ ခေါက်ပြန် သွားလာ ခုတ်မောင်းနေကြသည့် သင်္ဘော အမျိုးမျိုးကို တွေ့မြင်လာကြရလေသည်။

တဆဲ့ရှစ် ရာစုနှစ် အကုန်လောက်တွင် ရွက်အစား ရေနွေးငွေ့ စက်များကို သင်္ဘောများ၌ တပ်ဆင် အသုံးပြုရန် စမ်းသပ်ခဲ့ကြသည့် နည်းတူ၊ သင်္ဘောကိုယ်ထည်များကိုလည်း သစ်အစား သံနှင့် စမ်းသပ် ဆောက်လုပ်ခဲ့ကြ၏။ သို့ရာတွင် ၁၉ ရာစုနှစ် အလယ်ပိုင်းသို့ရောက်မှ သစ်အစား သံကို အသုံးများလာကြ၍ ထိုရာစုနှစ် အကုန်လောက်တွင် သံအစား သံမဏိကို အသုံး ပြုလာကြသည်။ ဤသို့ ပြောင်းလဲ အသုံးပြုလာခြင်းမှာ အရွယ်ချင်းတူလျှင် သစ်သားနှင့် ဆောက်လုပ်ခြင်းထက် သံနှင့် ဆောက်လုပ်ခြင်းကရင်း၊ သံနှင့် ဆောက်လုပ်ခြင်းထက် သံမဏိနှင့် ဆောက်လုပ်ခြင်းကရင်း ပို၍ ပေါ့ပြီးလျှင် ပို၍လည်း ခိုင်ခံ့သောကြောင့် ဖြစ်၏။ အရွယ်ချင်းတူလျှင် သံကိုယ်ထည်က သစ်သားကိုယ်ထည်ထက် အလေးချိန် ရာခိုင်နှုန်း ၄၀ မျှ ပိုပေါ့၍ သံမဏိကိုယ်ထည်က သံကိုယ်ထည်ထက် အလေးချိန် ၁၅ ရာခိုင်နှုန်းခန့် ပို၍ ပေါ့သည်။ တနည်းဆိုသော် အလေးချိန်ချင်းတူလျှင် သစ်သားကိုယ်ထည်ထက် သံကိုယ်ထည်ကရင်း၊ သံကိုယ်ထည်ထက် သံမဏိကိုယ်ထည်ကရင်း ပို၍ ကျယ်ဝန်း ကြီးမားသဖြင့် ကုန်ချိန်ပို၍ တင်နိုင်လေသည်။ ထိုအတွက် နောင်တွင် အလွန်ကြီးမားသော သင်္ဘောကြီးများကို သံမဏိဖြင့်သာ ဆောက်လုပ် လာကြတော့သည်ကို တွေ့ရလေသည်။



ပင်လယ်ရေကြောင်းခရီးသည်တင် ပြည်တော်ညွန့်သင်္ဘော

ရေနွေးငွေ့ဖြင့် မောင်းနှင်သော သင်္ဘောများ ပေါ်စက ဘေးဒုတ်စက်ကဲ့သို့သော ရေယက်ဘီးကြီးများကိုသာ တပ်ဆင်ခဲ့ကြ၍ နောက်မှ ငမန်းစက်ဟု ခေါ်ကြသော သင်္ဘောပဲ့ပိုင်းတွင် တပ်သည့် ဝက်အူရစ် ပန်ကာ (ဝက်အူကဲ့သို့လည်ယင်းနှင့် ရှေ့သို့ တိုးသွားသော ပန်ကာ)များ ပေါ်ပေါက်လာသည်။ ရေယက် ဘီးကြီးများမှာ ရေပေါ်တွင် တဝက်ပေါ်နေ၍ အထူးသဖြင့် စစ်အတွင်း၌ ရန်သူတို့က အလွယ်တကူ ပစ်ခတ် ဖျက်ဆီး နိုင်၏။ ငမန်းစက်ခေါ် ပန်ကာများမှာ ရေအောက်တွင် နစ်မြုပ်နေသည့်အတွက် ရန်သူ့ဘေးမှ ပို၍ ဝေးလေသည်။ ငမန်းစက်ခေါ် ဝက်အူရစ် ပန်ကာဖြင့် ခုတ်မောင်းနိုင်သည့် နည်းကို ကာနယ် ဂျွန် စတီဗင် ဆိုသူ အမေရိကန်လူမျိုး တဦးက ၁၉ ရာစုနှစ် အစလောက်တွင် ကြံစည်ခဲ့ဘူးသည် ဆို၏။ သို့ရာတွင် ထိုပန်ကာမျိုး တပ်ဆင်ထားသော ပဌမ ပင်လယ်ကူး သင်္ဘောများကို အင်္ဂလန်ပြည်၌ ၁၈၃၆ ခုနှစ်နှင့် ၁၈၃၉ ခုနှစ်အတွင်းတွင် အင်္ဂလိပ်လူမျိုး စမစ်ဆိုသူနှင့် ဆွီလူမျိုး ကပ္ပတိန် ဂျွန် အားရစ်ဆန် ဆိုသူတို့က ရှေးဦးစွာ ဆောက်လုပ်ခဲ့ကြပေသည်။

ဝက်အူရစ် ပန်ကာများကို သင်္ဘောများ၌ အကျိုးရှိစွာ တပ်ဆင် အသုံးပြုခဲ့ရာမှ နောင်သော် ပန်ကာတခု ပျက်က အခြားတခု ကျန်စေရန် ပန်ကာနှစ်ခုတပ် သင်္ဘောများ ပေါ်လာပြန်သည်။ ယခုခေတ်ရှိ အချို့ ပင်လယ်ကူးသင်္ဘောများမှာ ဆိုလျှင် ပန်ကာသုံးခုမှ လေးခုအထိပင် တပ်ဆင်ထားတတ်ကြ၏။

တဖန် ရေနွေးငွေ့စက် ရိုးရိုးမှာ တာဗိုင် ရေနွေးငွေ့ဖြင့် လည်သည့် ရဟတ်စက်များ ပေါ်ပေါက်ပြီးနောက် ၁၈၉၇ ခုနှစ်တွင် ရှေးဦးစွာ တာဗိုင် ရဟတ်စက်ဖြင့် ခုတ်မောင်းသော 'တာဗင်နီးယား' ခေါ် သင်္ဘော ပေါ်ပေါက်လာခဲ့သည်။ တာဗိုင်စက်ဖြင့် ခုတ်မောင်းသောအခါ ရိုးရိုး ရေနွေးငွေ့စက်များထက် ပို၍လျင်မြန်သည်ကို တွေ့ရ၏။ 'ကွင်းမေရီ' အမည်ရှိသော ကမ္ဘာကျော် ပင်လယ်ကူး သင်္ဘောကြီးတွင် တာဗိုင်စက် လေးခု တပ်ဆင်ထား၍ တနာရီလျှင် ရေမိုင် ၃၀ ကျော်နှုန်းဖြင့် အတ္တလန္တိတ် သမုဒ္ဒရာကို ကျော်ဖြတ် ခုတ်မောင်းနိုင်ခဲ့လေသည်။

ပင်လယ်ခရီးလွှင့်စဉ် သင်္ဘောများကို မြန်သည်ထက် မြန်အောင် ခုတ်မောင်းနိုင်ရန် လိုလားကြသည် မှန်၏။ သို့သော် ရေနွေးငွေ့စက်နှင့် ဆိုလျှင် မြန်အောင် ခုတ်လေ ကျောက်မီးသွေး အကုန်အကျများလေ ဖြစ်သဖြင့် သင်္ဘောအများပင် ခပ်မှန်မှန်သာ ခုတ်မောင်း ကြလေသည်။ ပင်လယ်ကူး သင်္ဘောကြီး တစင်းသည် အမြန်ဆုံး ခုတ်မောင်းလျှင် ၂၄ နာရီအတွင်း ကျောက်မီးသွေး တန်ချိန် ၁,၀၀၀ အထိပင် ကုန်နိုင်ပေသည်။

ယခုခေတ်တွင် ကျောက်မီးသွေး အစား ရေနံဖြင့် မောင်းနှင်နိုင်သော ဒီဇယ်အင်ဂျင်စက် တပ်ဆင်ထားသည့် သင်္ဘောများ ပေါ်ပေါက် လာပြန်သည်။ ထိုစက်မျိုးကို သုံးသောအခါ ရေနွေးငွေ့ စက်များလောက် အလုပ်မများပဲ စက်ထားရန် နေရာလည်း ကျဉ်းသွား လေသည်။ သို့သော် သင်္ဘောတိုင်းတွင်ကား ဒီဇယ်မော်တော်စက်များကို တပ်ဆင်ခြင်း မရှိသေးချေ။

ယခုအခါ၌ ကူးသန်းသွားလာလျက်ရှိသော သင်္ဘောများကို (၁) ခရီးသည် သက်သက် တင်ဆောင်သော သင်္ဘောများ၊ (၂) ခရီးသည်နှင့် ကုန်များကို တင်ဆောင်သော သင်္ဘောများနှင့် (၃) ကုန်သက်သက်ကိုသာ တင်ဆောင်သော ကုန်သင်္ဘောများ ဟူ၍ သုံးမျိုးခွဲခြားနိုင်သည်။ ထိုသုံးမျိုးအနက် ခရီးသည်တင်ပင်လယ်ကူးသင်္ဘောများတွင် ကမ္ဘာ၌ အကြီးဆုံး၊ အမြန်ဆုံးနှင့် အခမ်းနားဆုံး သင်္ဘောကြီးများ ပါဝင်လေသည်။ ပြင်သစ်နိုင်ငံမှ 'ပြင်သစ်' (တန်ချိန် ၆၆,၃၄၈)၊ ဗြိတိန်မှ 'ကွင်းအယ်လစ်ဇဗက် ၂' (တန်ချိန် ၆၅,၈၆၃)၊ ဣတလီနိုင်ငံမှ 'ရက်ဖာအယ်လို' (တန်ချိန် ၄၅,၉၃၃) တို့မှာ ပဌမ၊ ဒုတိယနှင့် တတိယ အကြီးဆုံး ဖြစ်ကြသည်။

ခရီးသည်တင် ပင်လယ်ကူး သင်္ဘောကြီးများကို အလွန် ခမ်းနားလှပစွာ ဆောက်လုပ်ထားကြ၍ အတွင်း၌လည်း ခရီးသည်များ မပျင်းမရိစေရန် လိုလေသေးမရှိအောင် ပြုလုပ် ခင်းကျင်းထားသဖြင့် ထို သင်္ဘောကြီးများကို 'ရေပေါ် နန်းတော်'ဟူ၍ပင် ခေါ်စမှတ် ပြုကြရ၏။ အချို့ သင်္ဘောကြီးများတွင် အထပ်ပေါင်း ၁၂ ထပ်မျှ ရှိ၍ အိပ်ခန်း၊စာကြည့်တိုက်၊ဘုရားရှိခိုးခန်း၊ကစားခုန်စား ခန်း၊ ရေကူးကန်၊ ရုပ်ရှင်ခန်း၊ တူရိယာ ဂီတခန်း၊ ဆေးလိပ်သောက်ခန်း၊ ညှော်ခန်း၊ သီးသန့်ခန်း၊ ပျော်ပွဲစားခန်း၊ ကုန်စုံဆိုင်၊ ဆံပင်ညှပ်ဆိုင်၊ ကလေးကစားခန်း၊ဝိုင်ယာလက်ကြေးနန်းရုံး၊ ဓာတ်လှေကား စသည်ဖြင့် သူ့နေရာနှင့် သူ့အမျိုးစုံအောင် ခွဲခြားစီစဉ် ထားရကား ထိုသင်္ဘောမျိုးနှင့် ခရီးသွားရသူသည် အဘယ်မှာလျှင် ပျင်းရိနိုင်ပါအံ့နည်း။ ထိုကြောင့်ပင် ငွေကြေး ချမ်းသာသူများသည် အားလပ်ချိန်များတွင် တခါတရံ အဆိုပါ ရေပေါ် နန်းတော်ပေါ်၌ တမင်သက်သက် စီးနင်းလိုက်ပါကာ အချိန် ဖြုန်းကြသည်ကို အံ့သြဖွယ် မရှိပေ။

ဤသို့ လူစီး သင်္ဘောနှင့် ကုန်တင် သင်္ဘောများကို အမျိုးမျိုးတီထွင် ကြံဆ ဆောက်လုပ်ခဲ့ရာမှ ၁၉၅၉ ခုနှစ် ဇူလိုင်လ ၂၁ ရက်နေ့တွင် အမေရိကန် ပြည်ထောင်စု၊ နယူးဂျာစီပြည်နယ် ကမ္ဒင်မြို့၌ ပဌမဆုံး အနုမြူစွမ်းအင်သုံး ကုန်သင်္ဘောဖြစ်သော အင်(န)၊အက်(စ) ဆဗန်းနားကို ရေချနိုင်ခဲ့လေသည်။

လူစီးသင်္ဘောနှင့်ကုန်တင်သင်္ဘောများအပြင် တန်တား မဆောက်နိုင်သော မြစ်နှင့် ရေလက်ကြားများတွင် တဖက်မှ တဖက်သို့ ကူးတို့ကူးပေးသော ကူးတို့သင်္ဘောများလည်း ရှိ၏။ ထိုသင်္ဘောများအနက် မီးရထားတွဲများကို တင်ဆောင်ကာ မီးရထားခရီးကို ဆက်ပေးသော သင်္ဘောမျိုးမှာ အထူးဆုံးဖြစ်ရာ၊ အဆိုပါ ကူးတို့မျိုးကို ၁၉၃၆ ခုနှစ်က စ၍ အင်္ဂလိပ် ရေလက်ကြားကို ဖြတ်လျက် ဒိုဗာနှင့် ဒန်းကတ်အကြား၌ လမ်းဖွင့် တီထွင်ခဲ့လေသည်။

၁၉၆၇ ခုနှစ် စာရင်းအရ ဂျပန်နိုင်ငံပိုင် လူစီးနှင့် ကုန်တင်သင်္ဘော အရေအတွက်မှာ ၆,၇၇၇ ဖြစ်၍ တန်ချိန် စုစုပေါင်း ၁၉,၅၇၆,၉၀၂ ဖြင့် သင်္ဘော အရေအတွက်၌ ကမ္ဘာ့တွင် ပဌမစွဲ၏။ ဆိုဗီယက်ပြည်ထောင်စုတွင် သင်္ဘောပေါင်း ၄,၂၀၆ ရှိ၍ တန်ချိန်စုစုပေါင်း ၁၂,၀၆၁,၇၃၃ ဖြင့် သင်္ဘောအရေအတွက်၌ ဒုတိယ လိုက်၏။ ဗြိတိန်နိုင်ငံတွင် သင်္ဘောပေါင်း ၄,၀၂၀ ရှိ၍တန်ချိန်စုစုပေါင်း ၂၁,၉၂၀,၉၇၀ ဖြင့် သင်္ဘောအရေအတွက်၌ တတိယ လိုက်လေသည်။ တန်ချိန်စုစုပေါင်း အရေအတွက်အရမူ လိုက်ဗီးရီးယားနိုင်ငံက တန်ချိန် ၂၅,၇၁၉,၆၄၂ ဖြင့် ပဌမစွဲကာ ဗြိတိန်နိုင်ငံက တန်ချိန် ၂၁,၉၂၀,၉၇၀ ဖြင့် ဒုတိယစွဲပြီးလျှင် ဂျပန်နိုင်ငံက တန်ချိန် ၁၉,၅၇၆,၉၀၂ ဖြင့် တတိယ လိုက်လေသည်။

**သင်္ဘောကြီးများ တည်ဆောက်ပုံ။** ။ သင်္ဘောတစင်းကို မတည်ဆောက်မီ ပဌမ အရေးအကြီးဆုံးမှာ သင်္ဘောတစင်းလုံးရှိ ဆိုင်ရာ အစိတ်အပိုင်းအားလုံး၏ အတိုင်းအဆ အချိုးအစားများကို အတိအကျ တွက်ချက်ရန် ဖြစ်သည်။ ထိုအတွက် တည်ဆောက်မည့်သင်္ဘော၏ တန်ချိန်၊ မြန်ရှိန်နှင့် ထိုသင်္ဘော သွားလာ ဝင်ထွက်ရန် ကြံရွယ်ထားသည့် ဆိပ်ကမ်းများရှိ ရေအနက်စသည်တို့ကို သိထားရန် လိုပေသည်။ ထိုအချက်များကိုရသောအခါ သင်္ဘောပုံစံ ရေးဆွဲသူသည် ရေထဲ၌ နစ်မြုပ်မည့် သင်္ဘော၏ ရေစူးခေါ် ရေအောက်သို့ နစ်မြုပ်မည့်စောက်အနက်ကို တွက်ချက်ပြီးသော် သင်္ဘော၏အလျား၊ ပြက်နှင့် ဝမ်းစောက်တို့ကို တဖန် တွက်ချက်ရ ပြန်သည်။ ထိုနောက် သင်္ဘောပုံစံကို ရေးဆွဲပြီး၍ တည်ဆောက်ရေးနှင့် အင်ဂျင်နီယာဖက် ဆိုင်ရာ ပုံဆွဲဆရာများလက်သို့ လွှဲပေးလိုက်သောအခါ ပုံဆွဲဆရာများက အသေးစိတ် ပုံစံများကို အတိအကျ ရေးဆွဲကြရပြန်သည်။ ထိုပုံစံများကိုမူတည်ပြီးမှ သင်္ဘောတည်ဆောက်ရေးကို စတင် ပြုလုပ်နိုင်လေသည်။

အကြီးစား ပင်လယ်ကူး သင်္ဘောတစင်း တည်ဆောက်နေသည့် သင်္ဘောကျင်းသို့ သွားကြည့်မည် ဆိုပါက သင်္ဘောကျင်းမှာ ရွာတရွာတမျှ ကျယ်ဝန်း၍ ထိုသင်္ဘောကျင်းထဲ၌ သူ့နေရာနှင့်သူ ခွဲခြားထားသော အလုပ်ရုံ အသီးအသီးတွင် ထောင်ပေါင်းများစွာသော အလုပ်သမားများ သူ့တာဝန်နှင့်သူ မနေမနား အလုပ်လုပ်နေကြပုံကို ကောင်းစွာ တွေ့မြင်ရပေမည်။ အလုပ်သမားများတွင် သံရည်ကျို၊ သံဖြတ်၊ သံဖောက်၊ သံဂဟေဆက်၊ သံစိုတေ စသော သံဖက်ဆိုင်ရာ အလုပ်သမားများ၊ သစ်ဖက်ဆိုင်ရာ လက်သမားများ၊ စက်ဖက်ဆိုင်ရာ အလုပ်သမားများ၊ လျှပ်စစ် ဓာတ်ဖက်ဆိုင်ရာ အလုပ်သမားများ၊ ပုံဆွဲဆရာများ၊ ဆေးသုတ်သမား၊ အလုပ်သမား စသည်ဖြင့် လုပ်သားအမျိုးမျိုးရှိ၍ သူ့အစုနှင့်သူ ဆိုင်ရာအလုပ်ကို လုပ်ကြရ၏။

တနေရာတွင် အတုံး၊ အချောင်း၊ အချပ်လိုက် စုပုံထားသော သံနှင့်သံမဏိပုံများကိုငင်း၊ တနေရာတွင် အချောင်းလိုက်၊ အချပ်လိုက် စုပုံထားသော သစ်ပုံ ပျဉ်ပုံများကိုငင်း တွေ့ရမည်ဖြစ်၏။ မော်တော်ကား၊ လက်တွန်းလှည်းနှင့်တကွ သံလမ်းပေါ်၌ သွားလာနေကြသော ကုန်တင် မီးရထားတွဲများက ပစ္စည်းများကို တနေရာမှ တနေရာသို့ လိုသလို ရွှေ့ပြောင်းလျက် ဝန်တင်မောင်းကြီးများက ကုန်ပစ္စည်းအမျိုးမျိုးကို တင်လိုက် ချလိုက် ပြုလုပ်နေသည်ကိုလည်း တွေ့ရပေမည်။ သင်္ဘောကျင်းရှိ နေရာအနှံ့အပြားမှ ထွက်လာသော ထုသံ၊ တေသံ၊ စက်ခုတ်သံများမှာ နားကွဲလုမတတ် ဆူညံလျက် ရှိသည်ကိုလည်း ကြားရပေမည်။

ရှေးက သင်္ဘောများကို အောက်ခြေမှ အစ၊ တဆင့်ပြီး တဆင့် တည်ဆောက်သွားလေ့ ရှိကြ၏။ ယခုအခါ၌မူ သင်္ဘောကို အကယ် မဆောက်မီ ပုံစံနှင့်အညီ သင်္ဘောနမူနာ အငယ်စား တစင်းကို ပဌမပြုလုပ် စမ်းသပ်ပြီးမှ ဆောက်လုပ်လေ့ ရှိသဖြင့် ယခင်ကထက် သေချာကောင်းမွန်သော သင်္ဘောများကို ဆောက်လုပ်နိုင်ကြ ပေသည်။ စမ်းသပ်ရာတွင် ရေကန်ထဲရှိ ရေကို စက်တမျိုးဖြင့် ပင်လယ်လှိုင်းနှင့် အချိုးညီအောင် လှိုင်းထစေပြီးလျှင် ပဲ့နှင့် ပန်ကာတို့၏ အကျိုးအပြစ်တို့ကို အလွန် သိမ်မွေ့သော ကရိယာများဖြင့် မှတ်သားထားလေသည်။

သင်္ဘောကို သစ်နှင့် ဆောက်လုပ်သည် ဖြစ်စေ၊ သံနှင့် ဆောက်လုပ်သည်ဖြစ်စေ ပုံစံပါ အချိုးအတိုင်း ဦးမှ ပဲ့အထိ ရှည်သော ရောကို ပဌမ ချပေးရ၏။ ထိုနောက် နံရိုးသဏ္ဍာန်ရှိသော တကူ အခြင်တိုင်များကို စိုက်ပေးရ၍ ထိုအခြင်များပေါ်တွင် သင်္ဘောဝမ်းဖြစ်လာအောင် ပျဉ်အထူကြီးများ၊ သို့မဟုတ် သံ၊ သံမဏိပြားကြီးများကို ကပ်ရိုက်ပေးရသည်။ ထိုသို့ ကပ်ရိုက်ပေးရာတွင် သစ်ကို သုံးသည် ဖြစ်စေ၊ သံကို သုံးသည်ဖြစ်စေ ရေမဝင်နိုင်မည့် နည်းများဖြင့် ပြုလုပ်ပေးရလေသည်။ ယခုခေတ် သင်္ဘောများတွင် သင်္ဘောကို နှစ်ထပ် ဆောက်လုပ်ထားလေ့ ရှိကြသည်။ ထိုအခါ သင်္ဘောဝမ်းတထပ် ပေါက်သွားသည့်တိုင်အောင် ဒုတိယ အထပ်က ရေမဝင်နိုင်စေရန် ကာကွယ်ထားသဖြင့်

သင်္ဘောမှာ နစ်မြုပ်နိုင်ခြင်း မရှိပေ။ တဖန် ထို သင်္ဘောဝမ်း နှစ်ထပ်တွင် အခန်းများကို အကန့်လိုက် ဆောက်လုပ်ထားလေ့ ရှိပြန်ရာ သင်္ဘောတနေရာတွင် ပေါက်ပြဲ သွားပါက သက်ဆိုင်ရာ တခန်းတည်းကိုသာ ပြင်ဆင်ရန် လိုပေ၏။ အထူးသဖြင့် သင်္ဘော၏ ဦးပိုင်းကို အတိုက်အခိုက် ခံနိုင်ရည် ရှိစေရန် အထူးတလည် ခိုင်ခံ့စွာ ဆောက်လုပ်ကြရလေသည်။

ကိုယ်ထည်နှင့်တကွ အပြင်ဖက် ကိစ္စအားလုံး ပြီးစီးသော အခါ သင်္ဘောကို ဖြည်းညှင်းစွာ ရေသို့ ချတော့၏။ သင်္ဘောကို ရေသို့ချရာတွင် များသောအားဖြင့် အခမ်းအနားနှင့် ပွဲပိုင်းမှစ၍ ရေသို့ ချလေ့ရှိ၏။ သင်္ဘောကို ရေသို့ချသည့် အခမ်းအနားမှာ ထိုသင်္ဘောအတွက် ပဏာမ အောင်ပွဲပင် ဖြစ်၍ ထိုအချိန်တွင် သင်္ဘောကို ပိုင်ဆိုင်သူများရော၊ ဆောက်လုပ်သူများပါ ပျော်၍ မဆုံးကြတော့ပေ။ ထိုနောက် သင်္ဘောကို ကျောက်ချထားပြီးသော် စက်များကို နေရာတကျ တပ်ဆင်ပေးခြင်း၊ ကုန်းပတ်နှင့်တကွ အထပ်များကို ဆောက်လုပ်ခြင်း၊ အခန်းများ ဖွဲ့ပေးခြင်း၊ ပရိဘောဂ တပ်ဆင်ပေးခြင်း၊ မွမ်းမံ ပြင်ဆင်ပေးခြင်း၊ စသော အတွင်းဖက်ဆိုင်ရာ အလုပ်များကို ဆက်လက်၍ ပြုလုပ်ရပြန်သည်။

ယခုခေတ် သင်္ဘောကြီးများတွင် ခရီးသည်တင်ဆောင်နိုင်မှုကိုသာ မဟုတ်၊ ခရီးသည်တို့၏ သာယာပျော်ရွှင်မှုကိုပါ အဓိက ထားလာကြသည့်အတိုင်း သင်္ဘော ကုမ္ပဏီကြီးများသည် မိမိတို့၏ သင်္ဘောများကို ခမ်းနားပြည့်စုံသည့် နေရာ၌ သူထက်ငါ သာအောင် အပြိုင်အဆိုင် ဆောက်လုပ်ကြ၏။ ထိုကြောင့်လည်း ခေတ်ပေါ် သင်္ဘောကြီးများမှာ ရေပေါ် နန်းတော်ဟု ခေါ်ဆိုရလောက်အောင် ခမ်းနားလှသည်ကို တွေ့ရလေသည်။ အဆိုပါ သင်္ဘောကြီးများမှာ ယခုပင် ဤမျှ ကြီးကျယ် ခမ်းနားလျက် ရှိရာ၊ နောင်သော် မည်မျှ ဆန်းပြားလာဦးမည်ကို ကျွန်ုပ်တို့ စောင့်ကြည့်ရပေဦးမည်။

**သင်္ဘောမှတ်တမ်း။** ။သင်္ဘော၏ အသွားနှုန်းတိုင်း ကရိယာကို 'လော့'ဟု ခေါ်၍ သင်္ဘောကက်ပတိန်၏ မှတ်တမ်းစာအုပ်ကိုလည်း 'လော့'ဟုပင် ခေါ်ကြသည်။ သင်္ဘော စီးဖူးသူများအနက် သင်္ဘောပွဲပိုင်း၌ သင်္ဘောသွားစဉ် မီတာဒိုင်ခွက်တခုမှ ရေထဲသို့ ကြိုးတချောင်း တန်းလန်း ပစ်ထားသည်ကို အချို့ တွေ့ဘူးကြပေမည်။ ထိုကရိယာမှာ 'လော့'ခေါ် သင်္ဘောအသွားနှုန်းတိုင်း ကရိယာပင်ဖြစ်၏။ ရှေးကျသော ကရိယာမျိုးတွင် သစ်ပြားတခု၊ရစ်လုံးတလုံး၊ အရောင်စုံအဝတ်ထုံးများဖြင့်ညီညာစွာ စိတ်ပိုင်းထားသော ကြိုးတချောင်းနှင့် အချိန်ကိုမှတ်သည့် သဲနာရီတလုံး ပါဝင်သည်။ သစ်ပြားမှာ လက်မဝက်ခန့် ထူ၍ အချင်းဝက်ငါးလက်မ ခြောက်လက်မခန့် ရှိသော စက်ဝိုင်း၏ လေးစိတ်တစိတ် ပုံသဏ္ဌာန်ရှိသည်။ သင်္ဘောသွားနေစဉ် ရေထဲသို့ ပစ်ချထားခိုက် အခုံးဖက်က ရေထဲ၌ နစ်၍ အချွန်ဖက်က ထောင်နေစေရန် အခုံးဖက် အနားတလျှောက်တွင် ခဲတပ်ထားသည်။ သင်္ဘောသွားနေစဉ် သင်္ဘောသွားနှုန်းကို တိုင်းတာလိုသောအခါ ထိုသစ်ပြားကို ပွဲပိုင်းမှ နေ၍ လေတိုက်နေသည့် ဖက်သို့ လွဲကာ ရေထဲသို့ ပစ်ချလိုက်ရသည်။ ထိုအခါ သင်္ဘောသွားနေသည့်အတွက် ရစ်လုံးမှ ကြိုးသည် အလိုလို ပြေလိုက်သွားမည်။ ကန့်သတ်ထားသည့် အချိန်တွင် သစ်ပြားကို ဆယ်ယူ၍ ကြိုးထုံးများကို ရေတွက်ခြင်းဖြင့် သင်္ဘော၏ အသွားနှုန်းကို သိနိုင်ပေသည်။ များသောအားဖြင့် ကြိုးတထုံးနှင့် တထုံး အကြားသည် ၄၇.၃၃ ပေ ရှိပြီးလျှင် ရေထဲသို့ ပစ်ချထားသည့် အချိန်မှာ ၂၈ စက္ကန့် ဖြစ်သည်။ ကြိုးထုံးကို အင်္ဂလိပ်လို 'နော့'ဟု ခေါ်သဖြင့် သင်္ဘော၏ အသွားနှုန်းကိုလည်း 'နော့'ဖြင့်ပင် ခေါ်ဆိုတိုင်းတာလေ့ ရှိကြလေသည်။ သို့သော် ထိုကရိယာမျိုးကို ယခုအခါ အသုံးမပြုကြတော့ချေ။

ယခုအခါတွင် အသုံးပြုသော ကရိယာမျိုးကို 'တပ်ဖရေးလော့'ဟု ခေါ်၍ ထိုကရိယာတွင် သစ်ပြားအစား၊ ရေထဲ၌ ရေနှင့်တိုးမိသည့် အရှိန်ကြောင့် လည်ပြီး လိုက်ပါလာမည့် ရဟတ်တခုကို တပ်ဆင်ထားသည်။ ထိုရဟတ်ကို ကြိုးနှင့် ဆက်ထား၍ ကြိုးကိုတဖန် သင်္ဘောကုန်းပတ်ပေါ်ရှိ အသွားနှုန်းပြ မီတာဒိုင်ခွက် တခုနှင့် ဆက်ထားပြန်သည်။ သင်္ဘော မြန်မြန်ခုတ်မောင်းလျှင် ရဟတ် အလည်မြန်၍ သင်္ဘော နှေးနှေး ခုတ်လျှင်လည်း ရဟတ် အလည်နှေးသည်။ ရဟတ်လည်သောအခါ ရဟတ်နှင့် ဆက်ထားသော ကြိုးလည်း လည်ပြီးလျှင် ကြိုးလည်ပုံ အနှေးအမြန်ကို လိုက်၍ ဒိုင်ခွက်က သင်္ဘော၏ အသွားနှုန်းကို ပြစေလေသည်။

သင်္ဘောတွင် ကက်ပတိန်၏ မှတ်တမ်းစာအုပ်ကိုလည်း 'လော့ဗွတ်'၊သို့မဟုတ်'လော့'ဟုပင် ခေါ်ကြောင်း အထက်တွင် ဖော်ပြခဲ့ပြီ။ ထိုစာအုပ်တွင် ကက်ပတိန်က ဖြစ်စေ၊ အလှည့်ကျတာဝန်ကျသူ တဦးဦးကဖြစ်စေ သင်္ဘော သွားနေစဉ်အတွင်း ဖြစ်ပျက်သမျှ အဖြစ်အပျက်များကို အသေးစိတ် မှတ်တမ်း တင်ထားရသည်။ သင်္ဘော ပျက်ခြင်း၊ သင်္ဘောချင်း တိုက်မိခြင်း၊ လေမုန်တိုင်းမိခြင်း၊ ကုန်ပစ္စည်း ပျက်စီး ဆုံးပါးခြင်း၊ လူသူ သေပျောက်ခြင်း၊ ရာဇဝတ်မှု ဖြစ်ပွားခြင်း စသော အမှုကိစ္စ အဖြစ်အပျက် မှန်သမျှကို တိုတိုနှင့် လိုရင်းရောက်အောင် ထိုမှတ်တမ်း စာအုပ်၌ အသေးစိတ် ရေးမှတ်ထားရသည်။ သင်္ဘောတိုင်း၌ အဆိုပါ စာအုပ်မျိုး ထားရှိရန် ဥပဒေဖြင့် သတ်မှတ်ထားသည်။ တရားဝင်စာအုပ် ဖြစ်သည့်အတိုင်း ကက်ပတိန်တို့သည် ထို မှတ်တမ်းစာအုပ်များကို အသက်နှင့် လဲ၍ ကာကွယ်

ထိန်းသိမ်းကြရ၏။ သဘော်တစင်းလုံး နစ်မြုပ်သွားသည့်တိုင်အောင် ထိုစာအုပ်များကို ကက်ပတိန်တို့သည် မိမိတို့နှင့် တပါတည်း အရယူ ဆောင်ကြဉ်းလေ့ ရှိကြပေသည်။ လေယာဉ်ပျံများတွင်လည်း အလားတူ မှတ်တမ်းစာအုပ်များ ထားရှိရလေသည်။

**သဘော်ဆီးဖြူပင်။** ။သဘော်ဆီးဖြူပင်သည် ဆီးဖြူမျိုးတွင် ပါဝင်၍ ယူဖော်ဗီယားစီအီး မျိုးရင်းဝင် ဖြစ်သည်။ ရုက္ခဗေဒ အမည်အားဖြင့် ဖိုင်လန်သပ် ဒစ္စတီခပ်ဟု ခေါ်သည်။ မြေနိမ့်၍ စိုစွတ်သော ရာသီဥတုရှိသည့် ဒေသမျိုး၌ ပေါက်ရောက်နိုင်သည်။ ယင်းတို့သည် အိန္ဒိယ နိုင်ငံနှင့် မလ္လာယု ကျွန်းဆွယ်တို့၌ မူလပေါက်ရောက်ခဲ့ရာ နောင်အခါတွင် သီဟိုဠ်ကျွန်းနှင့် မြန်မာနိုင်ငံတို့သို့ မျိုးယူစိုက်ပျိုးခဲ့သည်။ သို့သော် မြန်မာနိုင်ငံတွင် သဘော်ဆီးဖြူပင်တို့ကို ဆီးဖြူပင်များကဲ့သို့ ပေါပေါများများ မတွေ့ရချေ။ ခြံဥယျာဉ်များ၌ အနည်းအကျဉ်း စိုက်ပျိုးကြသည်ကိုသာ တွေ့ရလေသည်။

သဘော် ဆီးဖြူပင်တို့သည် အပင်ငယ်များ ဖြစ်ကြ၍ ရွက်ကြွေပင်မျိုးတွင် ပါဝင်သည်။ ပင်စည်သည် ချောမွတ်၍ အကိုင်းအခက်များ လုပဝေဆာစွာ ထွက်သည်။ အရွက်များသည် ရွက်လွှဲထွက်၍ အရွက်၏ပုံသဏ္ဌာန်သည် အဖျားရှူးသော ဘဲဥပုံဆံဆံ ဖြစ်ပြီးလျှင် အနားညီသည်။ ပန်းပွင့်ကလေးများသည် အလွန်သေးငယ်၍ နီညိုရောင်ရှိသည်။ အဖိုပွင့် အမပွင့် နှစ်မျိုးလုံးပါဝင်၍ တခါတရံ လိင်စုံပါသော အပွင့်များလည်း ပါရှိတတ်ပြီးလျှင် နှစ်လက်မမှ လေးလက်မအထိရှည်သော ပန်းခိုင်တွင် ပြွတ်သိပ်၍ ပွင့်ကြသည်။ ရံဖန်ရံခါတွင်မူ ပင်စည်နှင့် အကိုင်းခွကြားမှလည်း အဆုပ်လိုက် ထွက်၍ ပွင့်တတ်လေသည်။

အသီးများသည် အစိမ်းနုရောင် ရှိပြီးလျှင် ပုံသဏ္ဌာန်အားဖြင့် လုံးယောင်ယောင် ဖြစ်သော်လည်း ထောင်လိုက်အမြောင်းချိုင့် ကလေးများ ခြောက်ခုမှ ရှစ်ခုအထိ ပါတတ်သည်။ ဆီးဖြူသီးထက် အရွယ်ငယ်သည်။ အကိုင်းများနှင့် တခါတရံ ပင်စည်တွင် ကပ်၍ ပြွတ်သိပ်စွာ သီးတတ်သည်။ ဧပြီလတွင် တကြိမ်၊ ဩဂုတ်လတွင် တကြိမ် တနှစ်လျှင် နှစ်ကြိမ်သီးသည်။ အသားများသော အသီးမျိုးဖြစ်၍ အစေ့လည်းပါရှိရာ အစေ့အဆန်သည် မာကျောသည်။ အသား၏ အရသာသည် ချဉ်၍ ခံတွင်းရှင်းသည်။ များသောအားဖြင့် သဘော်ဆီးဖြူသီးကို အချဉ်ထည့်၍ဖြစ်စေ၊ သနပ်လုပ်၍ဖြစ်စေ စားသုံးကြသည်။ အချို့ ယိုထိုး၍လည်း စားကြသည်။

မြန်မာ ဆေးကျမ်းများ အလိုအရ သဘော် ဆီးဖြူသီးခြောက်၏ ဂုဏ်သည် သွေး၊ သည်းခြေနှင့်ဖြစ်သော လေ၊ သလိပ်နာကိုငြင်း၊ လျှာ အာခံတွင်း သွေ့ခြောက်သော်ငြင်း၊ ရေငတ်သော်ငြင်း၊ သလိပ်ချွေးနန်း ခြောက်သွေ့သော်ငြင်း၊ အသံပျက်သော်ငြင်း၊ မျက်စိနာကိုသော်ငြင်း၊ အတွင်းပူကိုသော်ငြင်း ချမ်းသာစေတတ်၏ဟု ဆိုလေသည်။

အိန္ဒိယ ဆေးကျမ်းတို့အလိုမှာမူ သဘော်ဆီးဖြူ အသီးသည် ချုပ်၏။ အစေ့နှင့် အမြစ်သည် ဝမ်းသက်စေတတ်၏။ အရွက်နှင့် အမြစ်တို့ကို မြွေအဆိပ်ဖြေဆေးအဖြစ် သုံးနိုင်သည်ဟု ဆိုလေသည်။

သဘော်ဆီးဖြူပင်ကို အစေ့ပျိုး၍ စိုက်ကြရသည်။ ပျိုး၍ စိုက်သည့်အခါ တပင်နှင့်တပင် ပေ ၂၀ ခန့်ခွာ၍ စိုက်ပျိုးသင့်လေသည်။

**သဘော်နနတ်။** ။အရွက်မှ လျှော် ထုတ်ယူရရှိနိုင်၍ မြန်မာနိုင်ငံတွင် သဘော်နနတ်ဟု ခေါ်တွင်နေသော အပင်များသည် စင်စစ် နနတ်ပင်နှင့် မျိုးရင်းချင်း မတူ၊ မျိုးစိတ်လည်း ကွဲပြား ခြားနားသည်။ တိုတုတ်သော ပင်စည်မှ အရွက်ချွန်ကြီးများ ထိုးထိုးထောင်ထောင် ထွက်၍ ပေါက်ပုံသာလျှင် အနည်းငယ်ဆင်တူသည်ဟု ဆိုရပေမည်။ ယင်းတို့သည် မြန်မာနိုင်ငံ၌ မူလ ပေါက်ရောက်ခဲ့သော အပင်မျိုး မဟုတ်ချေ။ သဘော်နနတ်မျိုးသည် အမေရိကတိုက် အလယ်ပိုင်း မက္ကဆီကို စသော အပူပိုင်းဒေသများ၌ မူလပေါက်ရောက်ခဲ့ရာ အခြား အပူပိုင်းဒေသ နိုင်ငံများသို့ မျိုးယူစိုက်ခဲ့ရာမှ ပြန့်ပွားခဲ့ခြင်း ဖြစ်လေသည်။

သဘော် နနတ်မျိုးတို့သည် အမာရီလီဒေစီအီးမျိုးရင်းတွင် ပါဝင်၍ မျိုးခွဲအမည်မှာ အဂေဗီ ဖြစ်သည်။ ထိုအပင်မျိုးတို့သည် နှစ်ကြာခံ အပင်မျိုးဖြစ်၍ ငါးနှစ်မှ ဆယ်နှစ်အထိ အပင်သက် ရှည်သည်။ အချို့ မျိုးစိတ်တို့သည် ထိုထက်ပို၍ အသက် ရှည်သေးသည်။ သဘော်နနတ်ပင်တွင် အသားထူ၍ တောင့်တင်း ဖြောင့်မတ်ပြီးလျှင် လေးပေမှ ငါးပေအထိ ရှည်သော အရွက်ချွန်ကြီးများသည် နှင်းဆီပွင့်ဖတ်များ ထွက်ပုံကဲ့သို့ တခုနှင့်တခု ထပ်၍ ပင်စည်၏ ဘေးပတ်လည် လှည့်၍ ထွက်သည်။ အချို့မျိုးစိတ်တို့၏ အရွက်ထိပ်တွင် ဆူးရှိသည်။ အချို့ မျိုးစိတ်တို့၏ အရွက်၌ ရွက်ထိပ်ဆူးသာမက ရွက်စောင်းဆူးများလည်း ပါရှိလေသည်။ ပင်စည်သည် အလွန်တိုသဖြင့် အရွက်များသည် မြေကြီးထဲမှ ထွက်၍ ပေါက်သကဲ့သို့ ထင်ရလေသည်။

သဘော် နနတ်မျိုးတို့သည် အကြီး နှေးကွေးသည်။ အပင်ရင့်လာသောအခါ ရွက်ထပ်များ၏ အလယ်ဗဟိုမှ ဝါးလုံးအရွယ်ခန့် ရှိ၍ ၁၅ ပေမှ ပေ ၂၀ အထိ မြင့်သော ပွင့်တံကြီး ထွက်လာသည်။ ပွင့်တံ၏ အပေါ်ပိုင်းတွင် ဘေးကိုင်းဘေးလက်များထွက်၍ယင်းတို့၏အဖျားတွင် ပြွန်

ပုံသဏ္ဌာန် ဝါဖျော့ဖျော့ ပန်းခိုင်များပွင့်သည်။ ထိုသို့ ပွင့်တံကြီး မားမားစွင့်စွင့် ထွက်၍ ပွင့်ပုံမှာ လှေများ၌ ရွက်တိုင်ထူထားသည်နှင့် ဆင်ဆင်တူပေသည်။

အပွင့်များကျသွားပြီးနောက်တွင် အသီးများသီးသည်။ ယင်းတို့ကို ပင်ပေါက်ဖူးဟု ခေါ်သည်။ သဘော်ာနာနတ်မျိုးတို့သည် ယင်းသို့ အပွင့်ပွင့်၍ သီးပြီးနောက်တွင် အပင်များ သေကြသည်။ သို့သော် သားတက်များ ထွက်နေတတ်သဖြင့် ထိုသားတက်များမှ အပင်သစ်များ တဖန်ပြန်၍ ပေါက်နိုင်လေသည်။

သဘော်ာ နာနတ်ရွက်များမှ သဘော်ာကြိုးများကို ချည်နိုင်သည့် မနီလာကြိုးနီးပါး တောင့်တင်း သန်မာသောကြိုးများကို ကျစ်နိုင်သည့် လျှော်မျှင်များကို ထုတ်ယူရရှိနိုင်သည်။ ထိုလျှော်မျှင်များဖြင့် ကြိုးအကြီးအသေး အစားစားကို ပြုလုပ်နိုင်ကြသည်။ ထို့ပြင် အိတ်များ၊ ဖျာများကိုလည်း သဘော်ာ နာနတ်လျှော်များဖြင့် ရက်လုပ်ကြသေးသည်။ ထို့ကြောင့် သဘော်ာနာနတ်မျိုးတို့ကို လျှော်မျှင်ထုတ်ယူရန်အတွက် စိုက်ခင်းကြီးများဖြင့် အကြီးအကျယ်စိုက်ပျိုး လုပ်ကိုင်ကြသည်။ အမေရိကတိုက်၌ အရွက်များကို နွားစာအဖြစ် သုံးရန်လည်း စိုက်ပျိုးကြလေသည်။

သဘော်ာ နာနတ်မျိုးတို့၏ ပွင့်တံ အလယ်အူတိုင်ကို ပါးပါးလှီး၍ အခြောက်လှန်းပြီးနောက် အမျိုးမျိုး သုံးနိုင်သည်။ အချို့က မုတ်ဆိတ်ရိတ်ဓားသွေးရန်ငှင်း၊ အချို့က ဓာတ်ကာ ပစ္စည်းအဖြစ်ငှင်း၊ အချို့က ပိုးကောင်ကလေးများ ထည့်သော သေတ္တာ အတွင်းခံ အဖြစ်ငှင်း အသုံးပြုကြသည်။ အရွက်မှထွက်သော အမြှုပ်ပါသည့် အရည်သည် ဆပ်ပြာကဲ့သို့ ချေးကျွတ်သည်။ ထို့ကြောင့် အရွက်များကို ချေးတွန်းရန်လည်း သုံးကြသည်။ အချို့မျိုးစိတ်များ၏ အနီရောင် အမြစ်တုတ်တုတ်ကြီးများသည် ဆေးဖက်ဝင်သည်ဟု ဆိုကြသည်။

အချို့ မျိုးစိတ်၏ အပင်များမှ ရရှိသော အစေးကို မက္ကဆီကိုနိုင်ငံတွင် သေရည် ပြုလုပ် သောက်သုံးကြသည်။ ထိုအစေး ရရှိပုံမှာ ဤသို့တည်း။ ပွင့်တံမထွက်မီ ကာလတွင် အပင်သည် ပွင့်တံထွက်နိုင်အောင် လိုအပ်သော အာဟာရ ဓာတ်များကို အရွက်များ၌ သိုမှီးသည်။ ပွင့်တံထွက်ပြူလာသောအခါ အစေးများသည် ပွင့်တံရင်းသို့ သွား၍ စုကြသည်။ ထို့ကြောင့် အစေးကို လိုလျှင် ပွင့်တံဖူးကြီးကို ဖယ်ရှားပစ်ပြီးလျှင် အပင်၏ အလယ်ဗဟိုဖြစ်သော ထိုနေရာ၌ ခေါင်းပေါက်ဖြစ်အောင် တူးခြစ်ထုတ်လိုက်လျှင် ချိုမြမြ အရသာရှိသော အစေးကို ရရှိသည်။ ထိုအစေးကို ကဇော်ဖောက်၍ ပြုပြင်ခြင်းဖြင့် မက္ကဆီကိုနိုင်ငံသုံး အမျိုးသား အရက် ဖြစ်လာသည်။ ထိုအစေးသည် ဘယဆေး အဖြစ်ဖြင့်လည်း အသုံးချနိုင်၍ ရှားပါးလှသော အဂေဗေ့ ဟုခေါ်သည့် ဆေးသကြားတမျိုးကိုလည်း ထုတ်ယူရရှိနိုင်သည်။

ဆိုခဲ့သည့်အတိုင်း သဘော်ာနာနတ် မျိုးစိတ် အများအပြား ရှိသည့်အနက် လျှော်ထွက်ရာ၌ ကျော်ကြားသောမျိုးစိတ်တို့တွင် ယူးကတန် လျှော်ပင်လည်း အပါအဝင်ဖြစ်သည်။ ယင်းကို ရုက္ခဗေဒအမည်ဖြင့် အဂေဗီ ဖိုကရိုင်ဒီဟု ခေါ်၍ ယူးကတန်ပြည်နယ်၏ လျှော်ထွက် အများဆုံးသော အပင်ဖြစ်သည်။ ယူးကတန် လျှော်ပင်ကို အခြားသဘော်ာ နာနံတ်မျိုးတို့နှင့် ခွဲခြားသိသာနိုင်သော အချက်မှာ အရွက်ရောင်သည် စိမ်းပြာပြာဖြစ်၍ ရွက်ထိပ်မှာသာမက ရွက်စောင်းဆူးများလည်း ရှိလေသည်။ ပွင့်တံမှ အပွင့်များ ကျသွားပြီးနောက်တွင် ပင်ပေါက်ဖူးများသာ မက၊ အစေ့တောင့်များပါ ထွက်လာလေသည်။

ရုက္ခဗေဒအမည်ဖြင့် အဂေဗီ အမေရိကားနား ဟုခေါ်သော သဘော်ာ နာနတ်မျိုးကို အမေရိကန် ပြည်ထောင်စုတွင် နှစ်တရာပင်ဟု ခေါ်ကြသည်။ ယင်းသို့ ခေါ်ဝေါ်ခြင်းမှာ အပွင့် ပွင့်ခဲလှသော အပင်မျိုးဖြစ်၍ အနှစ်တရာမှတခါပွင့်သည် ဟူသော ယူဆချက်ဖြင့် အမည်မှားပေးခဲ့ခြင်းဖြစ်လေသည်။ ထိုအပင်မျိုးမှ ပိုင်တာ ဟူသော လျှော်ရရှိ၍ ဥရောပတိုက်တောင်ပိုင်း၊ အနောက်အိန္ဒိယကျွန်းစုနှင့် မက္ကဆီကို နိုင်ငံများတွင် အများအပြား စိုက်ပျိုးကြသည်။ ထို သဘော်ာနာနတ်မျိုးသည် ၁၆ ရာစုနှစ်ခန့်ကစတင်၍ ဥရောပတိုက်သို့ မျိုးရောက်ခဲ့ရာ၊ လှပခန့်ညားသော အပင်အနေအထားကြောင့် အလှစိုက်ပျိုးခဲ့ကြသည်။ မျိုးစိတ်ကွဲ အချို့၏ အရွက်များတွင် အရင်းမှ အဖျားအထိ အရွက်စောင်းတွင်သော်ငှင်း၊ အရွက်အလယ်တွင်သော်ငှင်း အဖြူ၊ သို့မဟုတ် အဝါရောင် အစင်းအကြောင်းပါရှိတတ်လေသည်။

ထို့ပြင် ဖိလစ်ပိုင်လျှော် (ရုက္ခဗေဒ အမည် အဂေဗီကန်တျူလာ) ဟုခေါ်သော သဘော်ာ နာနတ်မျိုး၊ မက္ကဆီကန် ဇာပူပေ လျှော် (ရုက္ခဗေဒအမည် အဂေဗီ ဇာပူပေ) ဟုခေါ်သော လျှော်ပင်မျိုးတို့သည်လည်း ရှိပေသေးသည်။ အဂေဗီ နက္ကလက်တာ ဟုခေါ်သော ဖလော်ရီဒါပြည်နယ်မှ သဘော်ာ နာနတ်မျိုးသည် အပင်ကြီးမျိုးဖြစ်၍ ပွင့်တံသည် ၄၂ ပေကျော်မျှပင် မြင့်မားနိုင်လေသည်။

မြန်မာနိုင်ငံ အထက်ပိုင်း၌ တွေ့ရှိရသော သဘော်ာနာနတ်မျိုးကို အဂေဗီ စစ္စလာနာ (စစ်ဇယ်လျှော်ပင်)ဟုခေါ်သည်။ မူလက အမေရိကတိုက် အလယ်ပိုင်း ဒေသတွင် ပေါက်ရောက်ရာမှ အာဖရိကတိုက် အရှေ့ပိုင်း မောရစ်ရှကျွန်း၊ အနောက်အိန္ဒိယကျွန်းစု၊ အိန္ဒိယနိုင်ငံ၊ သီဟိုဠ်ကျွန်းစသည် တို့သို့ မျိုးယူ စိုက်ပျိုးခဲ့ရာ မြန်မာနိုင်ငံသို့လည်း ပျံ့နှံ့ရောက်ရှိခဲ့လေသည်။ အာဖရိကတိုက်အရှေ့ပိုင်း မောရစ်



အချို့နိုင်ငံများတွင် သဘော်နာနတ်ကို စီးပွားဖြစ် စိုက်ပျိုးလုပ်ကိုင်ကြသည်။

ရှကျွန်း စသည်တို့၌ လျှော်ထုတ်လုပ်ရေး အတွက် အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်ကြသော်လည်း မြန်မာနိုင်ငံတွင်မူ ယင်းသို့ အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်ခြင်း မရှိသေးပေ။ အိန္ဒိယနိုင်ငံ မဒရပ်ပြည်နယ်တွင် သဘော်နာနတ်မျိုးတို့ကို မီးရထားလမ်းဘေး တလျှောက် စည်းရိုးတန်းအဖြစ် စိုက်ပျိုးထားလေသည်။

မြန်မာနိုင်ငံတွင် သဘော်နာနတ်ကြီးဟု ခေါ်သော အပင်မျိုးကို အနှံ့အပြား တွေ့ရသေးသည်။ ယင်းသည် ဖော်ပြခဲ့သော သဘော်နာနတ်မျိုးတို့နှင့် မျိုးရင်းတူသော်လည်း မျိုးခွဲမတူချေ။ ရုက္ခဗေဒ အမည်မှာ ဖာကရီးယာ ဂျိုင်ဂန်တီးဟူ၍ဖြစ်သည်။ ထို သဘော်နာနတ်မျိုးတို့သည်လည်း အမေရိကတိုက် အလယ်ပိုင်းဒေသ၌ မူလပေါက်ရောက်ရာမှ မောရစ်ရှ၊ အိန္ဒိယ၊ သီဟိုဠ်ကျွန်း စသည်တို့သို့ ပျံ့နှံ့လာခဲ့သည်။ ပဌမတွင် ဥယျာဉ်တွင်း အလှစိုက်ခဲ့ကြသော်လည်း နောင်အခါ မျိုးပွံ့ခဲ့သဖြင့် မီးရထားလမ်းဘေး၌ရင်း၊ မြေရိုင်းဖုန်းဆိုးများ၌ရင်း တွေ့ကြရသည်။ မြန်မာနိုင်ငံသို့လည်း မျိုးပွံ့ခဲ့သည်။ စိုက်ပျိုးရန် မခဲယဉ်းပဲ အရွက်များမှ လျှော်လည်းရရှိနိုင်သဖြင့် လျှော်ထုတ်ယူရန် သီဟိုဠ်ကျွန်း စသည်တို့၌ စီးပွားဖြစ် စိုက်ပျိုး လုပ်ကိုင်ကြလေသည်။ ထို သဘော်နာနတ်ကြီးမျိုးသည် အဂေဗီ စစ္စလာနာ (စစ်ဇယ်လျှော်ပင်) မျိုးစိတ်ဝင် အပင်များနှင့် ဆင်ဆင်တူသည်။ သို့သော် စစ်ဇယ် အရွက်များထက် ပို၍ ပါးပြီးလျှင် အစိမ်းရောင် ဖျော့သည်။ ထို့ပြင် အရွက်အလယ်ခန့်မှ စ၍ အရင်းတိုင်အောင် ရွက်စောင်းဆူးများ ရှိလေသည်။

သဘော်နာနတ်တို့သည် စိုက်ပျိုးပြုစုရန် မခဲယဉ်းသော အပင်မျိုး ဖြစ်ကြသည်။ ယင်းတို့သည် ပူပြင်း ခြောက်သွေ့သော၊ သို့မဟုတ် မိုးသင့်တင့်သော ရာသီဥတု ရှိ၍ ရေမဝပ်ပဲ ထုံးကျောက်မြေဆံသည့် ဒေသမျိုး၌ ပိုမို ဖြစ်ထွန်းသည်။ မိုးပါးရေရှားသည့် ဒဏ်ကို ခံနိုင်ရည် ရှိ၍ စိုက်ပျိုးရာ၌လည်း သားတက်များကို ဖယ်ရှားရန်၊ ပေါင်းပင်များ သုတ်သင်ပေးရန်မှ တပါး ဂရုတစိုက် စိုက်ပျိုး ပြုစုရန် မလိုပေ။

မိုးများ၍ မြေကောင်းသော ဒေသတွင် အရွက်များမှ လျှော် အထွက်နည်းသည်။ သို့သော် အရွက်ရေ ပို၍ များများ ထွက်သဖြင့် တပင်လုံး ချုံ၍ ဆိုရလျှင် လျှော်ပို၍ ရပြန် လေသည်။

အပင်များ စိုက်ရန် ပင်ပေါက်ဖူးတို့ကိုင်း၊ သားတက် တို့ကိုင်း ပျိုး၍ စိုက်နိုင်သည်။ ပင်ပေါက်ဖူးကို ပျိုးသည့် တနှစ်သား အပင်ပေါက်သည် စိုက်ပျိုးရန် ပို၍ ကောင်း သည်။ သားတက်ကို ပျိုးယူသော အပင်သည် ပွင့်တံစော စော ထွက်လေ့ရှိပြီးလျှင် အပင်ချင်းလည်း အရွယ်မညီပေ။ စိုက်ခင်းထဲတွင် အပင်တန်းများ ကြား၌ အခြား ပွင့်လွယ် သီးလွယ်သော အပင်များကိုလည်း စိုက်ပျိုး နိုင်သည်။ သဘော်နာနတ်ပင်တို့ကို မြေကောင်းသည့် အရပ်၌ တပင် နှင့် တပင် ရှစ်ပေမှ ခြောက်ပေခန့် ခွာ၍ရင်း၊ မြေညံ့သည့် ၌ ထိုထက်ပို၍ ကပ်ပြီးလျှင်ရင်း စိုက်ပျိုးနိုင်သည်။

လျှော်ထုတ်ရန် အရွက်များကို သုံးနှစ်ကျော် လေးနှစ် သားခန့် အပင်သက်ရမှ သာလျှင် စ၍ ဖြတ်ယူသင့်သည်။ တနှစ်အတွင်း ပျမ်းမျှ၍ တပင်မှ အရွက် ၂၅ ရွက်ခန့် ဖြတ်မှ သာ သင့်တော်ပေသည်။ ဖြတ်ယူမည့် အရွက်များသည် အောက်ဖက်ကျ၍ ရင့်ပြီးလျှင် အနည်းဆုံး သုံးပေခွဲ ရှည် သော အရွက်များ ဖြစ်ရပေမည်။ နောက် လေးနှစ်မှ ငါး နှစ်အတွင်း တနှစ်လျှင် တကြိမ်မှ နှစ်ကြိမ်အထိသာ ဖြတ် ယူပြီးလျှင် တပင်မှ စုစုပေါင်း ဖြတ်ယူရရှိနိုင်သော အရွက် ရေသည် ၁၅၀ မှ ၁၈၀ ခန့် ရှိပေလိမ့်မည်။ ယင်းသို့ လေး နှစ်မှ ငါးနှစ်ခန့်အထိ ဖြတ်ယူပြီးနောက်တွင် မူလ အပင် များကို ဖယ်ရှားပစ်၍ တနှစ်ခန့် အပင်မစိုက်ပဲ ထားသင့် သည်။ မိုးများသော ဒေသရှိ သဘော် နာနတ်ရွက်များ၏ လျှော်ထွက်နှုန်းသည် သုံးရာခိုင်နှုန်း၊မိုးပါးခြောက်သွေ့သော ဒေသမှ ဆိုလျှင် လေးရာခိုင်နှုန်း၊ သို့မဟုတ် တကေလျှင် လျှော်တတန်ခွဲ ထွက်နိုင်သည်။ အရွက် ၁,၀၀၀ မှ လျှော် ပေါင် ၄၀ မှ ၅၀ အထိ ထွက်နိုင်မည်ဟု ခန့်မှန်းရလေသည်။

အရွက်များကို ဖြတ်ယူပြီး ၂၄ နာရီအတွင်း လျှော်ထုတ် ယူသင့်သည်။ ဖြတ်ပြီးသား အရွက်များကို အစည်းများ စည်းပြီးလျှင် လျှော်ထုတ်သည့် စက်ရှိရာသို့ သယ်ယူရ သည်။ ထိုစက်များရှိ ခုံးနေသော သတ္တု အပြားများအပေါ် အရွက်များကို တင်ပေးလိုက်လျှင် ယင်းတို့က တဆင့် တဆင့် သယ်ယူသွား၍ လည်နေသော ဘီးများရှိရာသို့ ရောက်သည့်အခါ အရွက်တွင် ရှိသော အသားဖတ်များကို ခြစ်ယူလိုက်လေသည်။ ထိုနောက် ကျန်ရစ်သော လျှော် မျှင်များကို နေပူလှန်း၍ရင်း၊ အခြား သိပ္ပံနည်းများဖြင့် ရင်း ခြောက်သွေ့အောင် ပြုပြီးနောက်တွင် သန့်ရှင်းဖြီးခါ ချ၍ အထုပ်များ ပြုလုပ်ကာ နိုင်ငံခြားသို့ တင်ပို့ရန် အသင့် ထားရှိရလေသည်။

**သဘော်ပင်။** ။မြန်မာနိုင်ငံ အရပ်ရပ်ရှိ အိမ်ဝင်း၊ ခြံဝင်း နှင့် ဥယျာဉ်များတွင် အတွေ့ရများသော အသီးစား အပင် တမျိုးသည် သဘော်ပင် ဖြစ်သည်။ သဘော်သီးသည် လူ တို့၏ ကျန်းမာ အသက်ရှည်ရေးအတွက် အဖိုးတန်သော အသီး၊ အာဟာရဓာတ် အလွန်များပြားသော အသီး အဖြစ် ကျော်ကြားလှပေသည်။

ကမ္ဘာ့ အပူပိုင်းဇုန်ဒေသ နိုင်ငံများ၌ အတွေ့ရ များ သော်လည်း စင်စစ် သဘော်ပင်သည် မြောက်အမေရိကတိုက် တောင်ပိုင်း အပူပိုင်း ဒေသနှင့် အနောက် အိန္ဒိယ ကျွန်းစု တို့တွင် မူလ ပေါက်ရောက်ခဲ့သော အပင်မျိုး ဖြစ်သည်။ အိန္ဒိယ၊ သီဟိုဠ်ကျွန်း စသော ကမ္ဘာ့ အပူပိုင်း ဒေသများ သို့လည်း တစတစ မျိုးပျံ့ခဲ့ရာမှ မြန်မာ နိုင်ငံသို့လည်း ရောက်ရှိခဲ့လေသည်။

သဘော်ပင်သည် ကာရီကေစီအီး မျိုးရင်းတွင် ပါဝင်၍ ရုက္ခဗေဒ အမည်အားဖြင့် ကာရိကာ ပါပယာ ဟုခေါ်သည်။ ရှင်သန်လွယ်သော အပင်မျိုး ဖြစ်၍ အမြင့် ၁၅ ပေမှ ပေ ၂၀ ကျော်ခန့်အထိ ရှိနိုင်သည်။ သစ်နုပင်စည်မျိုး ရှိ၍ အကိုင်းအခက် မရှိပဲ အပေါ်သို့ ရှူးတက်သွားသော ပင် စည်၏ ထိပ်တွင် ထန်းပင်မှ ထန်းလက်များ ထွက်သကဲ့သို့ သဘော်လက်များ စုပြုံ၍ ထွက်သည်။ သဘော်လက်၏ အဖျား၌ နက်ရှိုင်း၍ အဖျားချွန်သော အဟိုက်ကြီး ခုနစ်ခု ပါဝင်သည့် လက်ဝါးပုံသဏ္ဌာန် ရှိသော အရွက်ရှိသည်။ အဟိုက်များ၏ အနားသည်လည်း အဖျားချွန် အဟိုက် များပင် ဖြစ်သည်။ အစိမ်းရင့်ရောင် အရွက်များသည် တပေကျော် နှစ်ပေခန့်မျှ ရှိသည့်တိုင်အောင် ကြီးမားကြ သည်။ အရွက်များ ရင့်လာလျှင် ဝါရောင်သန်းလာရာမှ အဝါရောင် ရင့်လာကာ နောက်ဆုံးတွင် ခြောက်၍ သဘော် လက်များ ကြွေကျသည်။ ပင်စည်တွင် သဘော်လက် ကြွေ ကျသည့် နေရာများသည် အရာ ထင်ကျန်ခဲ့လေသည်။ ရွက်ညှာတံသည် ခေါင်းပေါက် ရှိ၍ နှစ်ပေခန့်အထိ ရှည် လျားနိုင်သည်။ ထိုရွက်ညှာတံကို မြန်မာနိုင်ငံ၌ သဘော်ရိုး ဟု ခေါ်ကြလေသည်။

သဘော်ပင်သည် တပင်တည်းတွင် အဂ်ါစုံသော အပွင့်၊ သို့မဟုတ် လိင်စုံသော အပွင့် ပွင့်သည့် အပင်မျိုးလည်း ရှိတတ်သော်လည်း များသောအားဖြင့် အဖိုပွင့် သက်သက် ပွင့်သောအပင်၊အမပွင့်သက်သက်ပွင့်သောအပင်ဟူ၍ ခွဲခြား ရှိသည်။ အဖိုပွင့် အမပွင့် နှစ်မျိုးလုံးပင် အနံ့သင်းသင်း မွှေး ၍ အဝါရောင် ဖျော့ဖျော့ ဖြစ်သည်။ အဖိုပွင့်နှင့် အမပွင့် ကွဲပြားချက်မှာ အဖိုပွင့်သည် အလက်များကြားမှ ပွင့်တံ ရှည်များ ထွက်ပြီးလျှင် အဖျားတွင် တလက်မခန့် လည်ပင်း ရှည်သော ကတော့ပုံသဏ္ဌာန် အပွင့်ကလေးများ အခိုင်လိုက် ပွင့်သည်။ အချို့ပွင့်တံများသည် နှစ်ပေကျော် သုံးပေခန့်



ရသာချိုအေးသည့် သင်္ဘောသီးများ

အထိ ရှည်လျား၍ တွဲလောင်းကျနေသည်။ အမပွင့်သည် ပို၍ ကြီးပြီးလျှင် တပွင့်ချင်း ပွင့်၍ ပွင့်တံတိုသည်။ ပွင့်ဖတ် ငါးခု ပါရှိလေသည်။

အမပွင့် ပွင့်သော သင်္ဘောပင်သည် အခြားအပင်များ နှင့် ဝတ်မှုန် ကူးယှက်ခြင်းဖြင့် အသီး သီးသည်။ သို့သော် တခါတရံ အဖိုပွင့်၌လည်း အစေ့အိမ် ပါတတ်သဖြင့် အဖိုပွင့် ပွင့်သော အပင်မှလည်း အသီးသီးသည်။ ထိုအသီးများ သည် အညှာတံ တွဲလောင်းရှိသော အသီးများ ဖြစ်ကြ၍ အသီးများသည်လည်း ကြီးထွားခြင်းမရှိပဲ မှည့်လည်းမမှည့် ချေ။ ထိုသင်္ဘောသီးမျိုးကို ယိုထိုးစားရန်သာ အသုံးပြုကြ သည်။ ထိုသင်္ဘောပင်မျိုးကို မြန်မာနိုင်ငံတွင် သင်္ဘော ပဒေသာပင်ဟု အချို့က ခေါ်ကြလေသည်။

အထက်တွင် ဆိုခဲ့သည့်အတိုင်း အင်္ဂါစုံသော၊ သို့မဟုတ် လိင်စုံပါသော အပွင့် ပွင့်သည့် သင်္ဘောပင်တို့လည်း ရှိသေး ရာ ယင်းတို့ကလည်း အသီး သီးသည်။ ထိုအပင်မျိုးသည်မူ အခြား အပင်များနှင့် ဝတ်မှုန်ကူးယှက်ရန် မလိုတော့ပဲ အသီး သီးနိုင်လေသည်။

သင်္ဘောပင်သည် တပင်လျှင် လိင်တမျိုး ဖြစ်၍ အဖိုပင်၊ အမပင်၊ လိင်စုံပင်တို့မှ အသီး သီးနိုင်ကြပေရာ သင်္ဘောသီး များ၏ ပုံပန်းသဏ္ဌာန်နှင့် အရွယ်အစားသည်လည်း အမျိုး မျိုးအဖုံဖုံ ဖြစ်၍ အရသာတွင်လည်း ကွာခြားချက် ရှိသည်။ အချို့အသီးများသည် ဘဲဥပုံ ဖြစ်သည်။ အချို့သည် လုံး ဝန်းဝန်း၊ အချို့သည် ရှည်ချွန်းချွန်း ဖြစ်သည်။ လုံးဝန်း၍ အစေ့နည်းသော သင်္ဘောသီးသည် အရသာနှင့် ပြည့်စုံ၍ မျိုးကောင်းသည်ဟု ဆိုကြသည်။ သင်္ဘောသီးများသည် များသောအားဖြင့် ရှစ်လက်မမှ ၁၄ လက်မ အထိ ရှည်လျား ၍ အချင်း လေးလက်မမှ ခြောက်လက်မ အထိ ရှိသည်။ အသီးတလုံး၏ အလေးချိန်သည် ငါးပေါင်မှ ရှစ်ပေါင် အထိ အချိန် စီးနိုင်လေသည်။ သင်္ဘော ပဒေသာပင်မျိုးမှ လွဲလျှင် အသီး သီးသော သင်္ဘောပင်တို့သည် အပင်၏ အပေါ်ပိုင်း ထိပ်ဖျားတွင် တလုံးနှင့်တလုံး ထိကပ်လျက် ကြပ်ညှပ်နေ အောင် သီးသည်။ တနှစ်ပတ်လုံး သီးနိုင်သော အပင်မျိုး လည်း ဖြစ်လေသည်။

သင်္ဘောသီးအတွင်း၌ အစေ့များ တည်ရှိသော နေရာ သည် ခေါင်းပေါက်ကြီး ဖြစ်သည်။ ခေါင်းပေါက်၏ နံရံသည် အသီး၏ အတွင်းသားဖြစ်၍ တလက်မကျော် နှစ်လက်မ နီး ပါးခန့် အသားထူသည်။ အသီးနုစဉ်အခါတွင် ထိုအတွင်း သားသည် အဖြူရောင် ဖြစ်၍ အရည်ရွှမ်းသည်။ အသီးရင့် လာသည့်အခါ တဖြည်းဖြည်း အဝါရောင်၊သို့မဟုတ် လိမ္မော် ရောင်သို့ ပြောင်းလာသည်။ အသီးခွံ၏ အရောင်သည်လည်း စိမ်းရာမှ ဝါလာသည်။ အသီးမှည့်လျှင် ပျော့လာ၍ ဝါရွှေ ရောင် တောက်နေသော အတွင်းသားကို ဇွန်းနှင့်ကော်ခပ် ၍ စားနိုင်လေသည်။ မျိုးကောင်းသော သင်္ဘောသီးမှည့် သည် ချိုမြမြနှင့် ရင်အေးသွားစေသော အရသာနှင့် ပြည့် စုံသည်။သင်္ဘောသီးမှည့်ကို အချို့က ဆားဖြူး၍ရင်း၊ ရှောက် ရည်၊ သံပုရာရည် ညှစ်၍ရင်း စားသုံးကြလေသည်။

အသီးအတွင်းရှိ ခေါင်းပေါက်ထဲ၌ ငရုတ်ကောင်းစေ့နှင့် သဏ္ဌာန်တူသော အစေ့များစွာ ပါရှိသည်။ မျိုးကောင်း သော သင်္ဘောသီးတွင် အစေ့နည်း၍ အချို့တွင် အစေ့ လုံး ဝ မပါချေ။ အသီးနုစဉ်တွင် အစေ့တို့သည် ဖြူသော်လည်း ရင့်လာသောအခါ အညိုရောင် အနက်ရောင်များ ဖြစ်လာ သည်။ အစေ့များသည် ခါးသက်သက် အရသာ ရှိသည်။ ရေငတ်ပြေစေနိုင်သော သတ္တိရှိသည်ဟု သိရလေသည်။

သင်္ဘောသီး မှည့်သည် အလွန်အာဟာရဖြစ်သော ဓာတ် စာတမျိုးပေတည်း။ သင်္ဘောသီးမှည့်ကို မှန်မှန် မှီဝဲသူတို့ သည် နုပျိုစိုပြေပြီးလျှင် ကျန်းမာရွှင်လန်းစွာ ရှိနိုင်သည်။ ရောဂါများကိုလည်း ခုခံနိုင်စွမ်းရှိ၍ ရောဂါကျရောက်ခဲ့သည် တိုင်အောင် လျှင်မြန်စွာ ကင်းစင်ပျောက်ကင်းနိုင်သည်ဟု ဆိုကြလေသည်။

မြန်မာဆေးကျမ်းတို့ အလိုမှာ သင်္ဘောသီး မှည့်သည် အေး၏။ ချို၏။ အတန်ငယ် ငန်၏။ ဓာတ်ဆုံး၌ အတန်ငယ်

ခါး၏။ အာပေါ ပဋ္ဌရဏ အစာမျိုးတည်း။ သလိပ်ခြောက်နာ၊ ချောင်းဆိုးသွေးပါနာတို့နှင့် သင့်၏။ ဆီးဝမ်းကို အမှန်သွားစေ၏ဟု ဆိုသည်။ ထိုပြင် ဥတုဘောဇနကျမ်း၌ သဘော်သီးမှည့်သည် လေ၊ သည်းခြေကို နိုင်၏။ ချို၏။ ဝမ်းကို ရှင်စေတတ်၏ ဟု ဆိုထားလေသည်။

သဘော်တပင်လုံးသည် ဆေးဖက်ဝင်သည်ဟု ဆိုကြသော်လည်း အရေးအကြီးဆုံး အပိုင်းသည် အသီးစိမ်းခွံမှ ထွက်သော အစေးဖြစ်သည်။ သဘော်ပင်သည် အစေးများသော အပင်မျိုး ဖြစ်၍ ပင်စည်မှသာမက သဘော်ရိုး၊ သဘော်လက်တို့မှလည်း အစေးရသည်။ ထိုအစေးသည် ပါးစောင်ရည်၊ အစာအိမ်ရည်တို့ထက် အစာချေချက်ရာတွင် ပို၍ အစွမ်းထက်သော သတ္တိရှိသည်။ အစာမကြေရောဂါ ပြင်းထန်စွာ ခံစားနေရသူများအား ကုသရန် ထိုအစေးကို ဆေးပါရဂူကြီးများ အသုံးပြုကြသည်။ ထိုပြင် ခန္ဓာကိုယ်အရပ်ရပ်ရှိ ပျက်စီးယိုယွင်းသော အရိုး၊ အခြင်၊ ကြွက်သား စသော အစိတ်အပိုင်းများကို ပြုပြင်ရန်နှင့် အစာအိမ် အူသိမ်တို့၏ အတွင်းကျသော အသားမျှင်တို့ ချွတ်ယွင်း၍ ဖြစ်ပွားသော ဗိုက်နာ အူနာများအတွက်လည်း အစွမ်းထက်သော ဆေးတလက်အဖြစ် ဆေးပါရဂူကြီးများက ထောက်ခံကြလေသည်။ ထို့ကြောင့် ကမ္ဘာပေါ်၌ အစွမ်းထက်သော ဆေးများတွင် သဘော်သီးအစေးလည်း ပါဝင်၍ မြန်မာဘယဆေးများတွင်လည်း သဘော်စေး ပါဝင်သည်ဟု သိရလေသည်။

အိန္ဒိယဆေးကျမ်းများ အလိုအရမူ အစေး လတ်လတ်ဆတ်ဆတ်ကို ပွေးနာများ၌ သုတ်လိမ်းပေးလျှင် ပျောက်ကင်းနိုင်သည်။ ထိုပြင် ကင်းကိုက်လျှင်လည်း သဘော်စေး သုတ်ပေးရသည်။ အစေ့များသည်လည်း ထိုနည်းတူ အသုံးဝင်သည်။ အစေ့နှင့် အစေးကို ကလေး သန်ချဆေးများ၌ အသုံးပြုနိုင် လေသည်။ သဘော်သီးမှည့်ကို မှန်မှန်စားပေးလျှင် ဝမ်းချုပ်တတ်ခြင်းမှ ကင်းဝေးစေနိုင်သည်။လိပ်ခေါင်းရောဂါရှိသူ၊ အစာမကြေ လေနာသူများအတွက် အထူး သင့်လျော်သည်။ အသီးမှည့်မှ ညှစ်ယူရရှိသော အရည်သည် တင်းတိတ်များကို ပျောက်ကင်း စေနိုင်သည်ဟု ဆိုသည်။ အသီးရင့်ရင့်ကို ဆားနယ်၍ နေလှန်းထားသော သဘော်သီးခြောက်သည် သရက်ရွက်နှင့် သည်းခြေကြီးသော ရောဂါသည်များအတွက် ဆေးတပါးဖြစ်၏။ သားသည် အမေများအတွက် အသီးရင့်ရင့်များကို ဟင်းချက်စားသုံးရန် သင့်လျော်သည်။ သို့သော် ကိုယ်ဝန်ဆောင်များမှာမူ သဘော်သီးစိမ်းများကို မစားသင့်ချေ။

မြန်မာလူမျိုးတို့သည် သဘော်သီးစိမ်းကို သားငါးနှင့် ရော၍ ဟင်းလျာအဖြစ် စားသုံးကြသည်။ လက်သုပ်သုပ်၍လည်း စားကြသည်။ ယိုလည်းထိုးကြသည်။ သဘော်သီးစိမ်းကို ထည့်၍ချက်လျှင် အမဲသားငါးတို့ ပို၍ နူးနပ်လွယ်ပြီးလျှင် ပို၍အရသာရှိသည်။ အသားများကို သဘော်ရွက်ဖြင့်ထုပ်ပြီးမှ ချက်ပြုတ်လျှင်ငှင်း၊ သဘော်စေးနှင့် နယ်ပြီးမှ ချက်ပြုတ်လျှင်ငှင်း အသားသည် နူးညံ့သွား၍ နူးနူးနပ်နပ်နှင့် စားကောင်းသည်ဟုလည်း ဆိုကြလေသည်။ မြန်မာလူမျိုးတို့သည် သဘော်ရွက်ကို ဟင်းသီးဟင်းရွက်အဖြစ် အသုံးနည်းသည်။သဘော်ရွက်တွင် ဗီတာမင်စီနှင့်အီးအပြင် စုစုပေါင်းအာဟာရဓာတ် ခြောက်မျိုးခန့်ပါ၍ အာဟာရရှုထောင့်မှ ကြည့်လျှင် အဖိုးတန် အရွက်ဖြစ်သည်။ သဘော်ရွက် နုနုကိုမူ လက်ဖက်နှင့်တွဲ၍ စားတတ်ကြ၍ တခါတရံ ပြုတ်၍ငှင်း၊ မီးအုံး၍ငှင်း တို့စားကြသည်။ သဘော်ရွက်သည် ခါးသည့်အရသာရှိသဖြင့် လေနာတတ်သူများအတွက် ကောင်းသည်။ ထိုပြင် ဝမ်းချုပ်သူများလည်း သဘော်ရွက်ကို စားပေးသင့်သည်။ အကြောအခြင် နာကြင်သော ဝေဒနာများနှင့် ဆင်ခြေထောက် ရောဂါများအတွက် သဘော်ရွက်သည် ဆေးဖက်ဝင်သည်ဟု သိရသည်။

သဘော်မြစ်သည် ဖက်ဖုနာနှင့် လိပ်ခေါင်းရောဂါအတွက် ဆေးဖက်ဝင်သည်။ အာဖရိကတိုက်နှင့် အနောက်အိန္ဒိယကျွန်းစုတွင် အခေါက်မှ လျှော်ထုတ်ယူပြီးလျှင် ကြိုးကျစ်ကြလေသည်။

သဘော်သီးမှည့်သည်ကြာရှည်ခံသောအသီးမျိုးမဟုတ်သဖြင့် ရပ်ဝေးဒေသများကို တင်ပို့ရောင်းချရန် မဖြစ်နိုင်ချေ။ ထို့ကြောင့် မြန်မာနိုင်ငံတွင် အသီးမှည့်ကို တင်ပို့ရောင်းချခြင်းအလို့ငှာ သဘော်ပင်များကို စံနစ်တကျ အများအပြား စိုက်ပျိုး လုပ်ကိုင်ကြသည်ကို မတွေ့ရပေ။ သဘော်စေး ထုတ်ယူရန်အတွက်လည်း မြန်မာနိုင်ငံ၌ စိုက်ပျိုးလုပ်ကိုင်ခြင်းမရှိချေ။ အကြမ်းဖျင်းအားဖြင့် သဘော်စေးကို ကျက်ပေါင်စေးထုတ်ယူသကဲ့သို့ ထုတ်ယူရရှိနိုင်၍ ထုတ်ယူပြီးနောက် ကြာကြာမဆိုင်းပဲ တဖြည်းဖြည်း သွေ့ခြောက်စေပြီး အမှုန့်ပြုရသည်။ ထိုအမှုန့်သည် အထက်တွင် ဆိုခဲ့သည့်အတိုင်း အလွန်ဆေးဖက်ဝင်သော အမှုန့်ဖြစ်လေသည်။ သီဟိုဠ်ကျွန်းတွင်မူ သဘော်စေးထုတ်ယူရန်အတွက် သဘော်ပင်များကို စိုက်ပျိုးလုပ်ကိုင်ကြရာ ၁၉၂၉ ခုနှစ်တွင် သီဟိုဠ်ကျွန်းမှ အမေရိကန် ပြည်ထောင်စုသို့ တင်ပို့သော သဘော်စေးတန်ဖိုးသည် စတာလင်ပေါင် ၄၄,၉၅၆ ဖြစ်သည်။ ယခုအခါ အိန္ဒိယနိုင်ငံ မဒရပ်၊ ဘုံဘိုင်၊ ဗင်္ဂလားနှင့် ဗီဟာပြည်နယ်တို့တွင် အကြီးအကျယ် စိုက်ပျိုးလျက်ရှိလေသည်။

သဘော်ပင်ကို အစေ့ပျိုး၍စိုက်ကြရသည်။ သဘော်ပင်သည် ရာသီဥတု ပူအိုက်စွတ်စိုသောမြေနိမ့်ဒေသများမှသည် ပေ ၁,၀၀၀ အထိမြင့်သော ဒေသများတိုင်အောင် ပေါက်ရောက်ဖြစ်ထွန်းနိုင်သည်။ မြေပွ၍ ရေဆင်းကောင်းသော

နေရာမျိုးကို နှစ်သက်သော အပင်မျိုးဖြစ်လေသည်။အလွန် ချမ်းအေးသော ဆောင်းရာသီဒဏ်ကိုမူ မခံနိုင်ချေ။

အစေ့များကို ပျိုးသည့်အခါ တွင်းငယ်များတူးပြီးလျှင် တတွင်းလျှင် အစေ့လေးငါးစေ့ခန့် ထည့်၍ ပျိုးရသည်။ ပေါက်လာသည့် အပင်ငယ်များအနက် အဖိုပင်များလည်း အများအပြား ပါရှိတတ်ရာ အဖိုပင်များကို ရှင်းလင်းဖယ်ရှားပစ်ရသည်။ သို့သော် အမပင်များနှင့် ဝတ်မှုန်ကူးယှက်ခြင်းပြု၍ အမပင်များအသီးသီးနိုင်ရန် အဖိုပင်များကိုလည်း ချန်သင့်သလောက် ချန်ထားရလေသည်။

သဘော်ဘပင်များသည် ဆယ်လခန့်ကြာလျှင် အပွင့်ပွင့်၍ အသီးများ သီးစပြုလေသည်။ ထိုအပင်များသည် ငါးနှစ်ခြောက်နှစ်ခန့်အတွင်းတွင် အသီး အများဆုံး သီး၍ ထို နောက်တွင်မူ အပင်အိုလာသဖြင့် အသီးနည်းလာသည်။ ထိုအချိန်တွင် အပင်များသည်လည်း အလွန်ရှည်မြင့်နေသဖြင့် အသီးများကို ခဲခဲယဉ်းယဉ်း ဆွတ်ခူးကြရလေသည်။ အပင်ပျိုစဉ်က တပင်တည်းတွင် တချိန်တည်း၌ အသီးအနုအရင့် အလုံး ၅၀ ကျော်ခန့်ပင် ရှိတတ်သည်။ အသီးများ အလွန်အများအပြားသီး၍ အပင်ထက်၌ အသီးများကြပ်ညှပ်လွန်းလျှင် အသီးအားလုံး ညှက်သွားတတ်သည်။ ထို ကြောင့် အချို့အသီးများကို မရင့်မီ ဆွတ်ခူးပေးကာ ကျန်သောအသီးလုံးများ ကြီးထွားစေရသည်။ သဘော်ဘသီးမှည့်များကို ရာသီမရွေး တွေ့ရသော်လည်း အပေါများဆုံးအချိန်မှာ နိုဝင်ဘာလနှင့် ဒီဇင်ဘာလ၊ မတ်လနှင့် ဧပြီလများ အတွင်း ဖြစ်လေသည်။

သဘော်ဘခြံစိုက်ပျိုးသူများအတွက် အကြံပေးချက်မှာ မူလစိုက်သည့်အပင်များ အသက် ငါးနှစ်ခန့်ရှိလျှင် ထိုအပင်များ ကြားထဲ၌ အပင်သစ်များ ထပ်၍ စိုက်သင့်သည်။ သို့မှသာလျှင် အပင်ဟောင်းများ ကျချိန်၌ အပင်သစ်များက တက်ချိန်ဖြစ်၍ သီးထွက် အလျှင်မပြတ် ရနိုင်မည် ဖြစ်လေသည်။

သဘော်ဘပင်များသည် ဘေးကိုင်းများ ထွက်ခြင်းမရှိဟု ဆိုခဲ့သော်လည်း အပင်အိုလာသည့်အခါ ဘေးကိုင်းများ ထွက်တတ်သည်။ ဘေးကိုင်းများ စောစောထွက်စေလိုလျှင် ပင်စည်ထိပ်ဖူးကို ဖြတ်ချပေးပါက ဘေးကိုင်းများ ခွ၍ ထွက်လာနိုင်လေသည်။

•

**သဘော်ဘဖရုံပင်။** ။သဘော်ဘဖရုံပင်သည် ဗူး၊ ဖရုံ၊ သခွား တို့၏ အနွယ်ဝင်ဖြစ်၍ ယင်းတို့နည်းတူ ကျူကာဗီတေစီအီး မျိုးရင်းတွင် ပါဝင်လေသည်။ ရုက္ခဗေဒအမည်အားဖြင့် ကျူကာဗီတာပီပိုဟု ခေါ်သည်။ သမရွေးပိုင်း ဒေသများ၌ မူလ

ပေါက်ရောက်ခဲ့သည်ဖြစ်၍ အပူပိုင်းဒေသများတွင် ကုန်းမြင့်များ၌ စိုက်ပျိုးဖြစ်ထွန်းလေသည်။

သဘော်ဖရုံသည်ရှင်သန်ကြီးထွားလွယ်၍ မြေလျောက်ပင်စည်မျိုးဖြစ်သည်။ ထို့ကြောင့်သဘော်ဖရုံကို စင်တင်ပေးရန် မလိုပဲ မြေကြီးပေါ်ချ၍ စိုက်ပျိုးနိုင်သည်။ အထူးသဖြင့် ခြံဝင်း၊ အိမ်ဝင်းများထဲရှိ အမှိုက်ပုံများတွင် သဘော်ဖရုံများ အညွန့်များအနွယ်များ သန်စွမ်းဝေဖြာစွာ ပေါက်ရောက်သည်ကို တွေ့ကြရသည်။

အရွက်များသည် ကြီးမားကြမ်းတမ်းသည်။ ရွက်ကြောမကြီးများတွင်၎င်း၊ ပင်စည်တွင်၎င်း ဆူးမွေးများရှိသည်။ အော်လံပုံ အပွင့်ကားကားကြီးများသည် ကြီးမားလှပ၍ အဝါရောင် တောက်တောက်လည်းရှိသည်။ လိမ်မော်ရောင်လည်း ရှိသည်။ တပင်တည်းတွင် အဖိုပွင့် အမပွင့် နှစ်မျိုးလုံး ပါရှိသော အပင်မျိုးဖြစ်သည်။ အမပွင့်များတွင် ကြီး၍ လုံးဝန်းသော မျိုးစေ့အိမ်ပါသဖြင့်၎င်း၊ဝတ်မှုန်မပါသဖြင့်၎င်း အဖိုပွင့်နှင့် ခွဲခြားသိသာနိုင်လေသည်။

သဘော်ဖရုံသည် အသီးကြီးသော အပင်မျိုးဖြစ်သည်။ ယေဘုယျအားဖြင့် ၁၀ ပေါင်မှ ပေါင် ၂၀ ခန့်အထိ အချိန်စီးလေသည်။ အသီး၏ပုံပန်းသဏ္ဍာန်သည် သခွားသီးကဲ့သို့ လုံးဝန်း၍ ရှည်မျောမျော ဖြစ်သည်။ အချို့မျိုးစိတ်ကွဲများသည် ဘဲဥပုံသဏ္ဍာန်ရှိသည်။ အသီးသီးချိန်မှစ၍ ရေများများပေးရန် လိုအပ်သည်။ အသီးထိပ်ပိုင်းကို ရေစိမ်ပေးလေ၊ အသီးကြီးထွားလေဟု ဆိုကြသည်။ အသီး အစွမ်းကုန် ကြီးသည်အထိ မစောင့်ပဲ အတော်အတန် ကြီးလာလျှင် ဆွတ်ခူးသင့်သည်။အသီးရင့်လွန်းက အရသာမရှိတော့ဟုဆိုကြသည်။ ဗူး၊ ဖရုံ၊ သခွားတို့နည်းတူ အခွံမာ၍ အရည်ရွှမ်းသော အသားရှိသည်။ သဘော်ဖရုံသီးကို ဟင်းသီးဟင်းရွက်တမျိုးအဖြစ် စားသုံးကြသည်။ အနောက်နိုင်ငံများတွင် မျိုးကောင်းသော သဘော်ဖရုံတို့ကို လူတို့စားသုံးရန်အတွက် စိုက်ပျိုးကြ၍ အမျိုးညံ့ညံ့များကိုမူ နွားစာရရန် စိုက်ပျိုးကြသည်။ ဗူး၊ ဖရုံ၊ သခွားတို့နည်းတူ အစေ့ပျိုး၍ စိုက်ပျိုးကြသည်။ ရှည်လျားသော အနွယ်များဖြင့် မြေပြင်ပေါ် လျောက်သွား ပေါက်ရောက်သဖြင့် အနောက်နိုင်ငံကြီးများတွင် လယ်ကွင်းများထဲ၌လည်း စိုက်ပျိုးကြလေသည်။

**သဘော်မဲဇလီပင်။** ။ကျေးလက်တောရွာနှင့် မြို့ဆင်ခြေဖုံး လမ်းဘေးများ၊ မြေရိုင်းဖုန်းဆိုးများ၌ အလေ့ကျပေါက်နေသော သဘော်မဲဇလီပင်ကို မြင်ဘူး တွေ့ဘူးသူ များပေလိမ့်မည်။ ယင်းကို မဲဇလီကြီးဟူ၍၎င်း၊ မဲဇလီခါး ဟူ၍၎င်း ခေါ်ဝေါ်ကြသေးသည်။

သဘော်မဲဇလီပင်သည်အပူပိုင်းဇုန်ဒေသ၌ပေါက်ရောက်



သဘော်မဲဇလီပင်၏ အပွင့်နှင့် အရွက်များ

သော အပင်မျိုး ဖြစ်ပြီးလျှင် ရှင်သန်လွယ်သဖြင့် ထိုဒေသများ၌ အနှံ့အပြားတွေ့ကြရသည်။ နှစ်ကြာခံ အပင်မျိုးဟုဆိုရသော်လည်း အပင်သက်တိုသော အပင်မျိုးဖြစ်သည်။ သို့သော် တခါပေါက်မိလျှင် ထိုနေရာတဝိုက်၌ အစေ့ကျရာမှ ပြန်၍ ပေါက်သဖြင့် မျိုးအဆက်မပြတ်နိုင်တော့ချေ။

သဘော်မဲဇလီသည် လီဂူမီနိုးစီးမျိုးရင်းဝင်ဖြစ်၍ ရုက္ခဗေဒအမည်ဖြင့် ကက်ဆီယာ အလာတာဟု ခေါ်သည်။ ခြုံပင်မျိုးဖြစ်၍ ငါးပေမှ ခြောက်ပေကျော်ခန့်အထိ အမြင့်ရှိနိုင်သည်။ အရွက်များသည် ထိပ်ရွက်မြွှာမပါသော (ငှက်မွေးရွက်မြွှာစုံ) ရွက်ပေါင်း ဖြစ်သည်။ ရွက်လက်များသည် တပေကျော်ခန့်ရှည်၍ ဆိုင်လျက်ထွက်သော ရွက်မြွှာများသည် လေးလက်မမှ ငါးလက်မခန့် အရှည်ရှိပြီးလျှင် အရင်းအဖျားဝိုင်းသည်။ ရွက်မြွှာများတွင် အကြောများထင်ရှား၍ ရွက်ကြောပြိုင် ဖြစ်လေသည်။ ရွက်လက်ရိုးတံနှင့် ရွက်မြွှာရွက်ညှာတို့သည် နီဝါဝါအရောင်မျိုး ရှိလေသည်။

စက်တင်ဘာလခန့်မှစ၍ အဖူးတံ၊ အပွင့်တံများထွက်စပြုသည်။ အပွင့်တံများသည် အကိုင်းများ၏ အဖျား၌ ထောင်၍ထွက်ကြသည်။ တောက်ပသောအဝါရောင်၊ သို့မဟုတ် လိမ်မော်ရောင် တပင်တိုင် ပန်းခိုင်မျိုးဖြစ်၍ ခြောက်လက်မခန့် ရှည်သည်။ အပွင့်များ၌ ပွင့်ညှာမရှိပဲ၊ ပွင့်တံ၏ပတ်လည်တလျောက် ကပ်၍ပွင့်ကြရာ အရင်းပိုင်းမှအပွင့်တို့သည်ရင့်သည်။ အဖျားပိုင်းသည် အပွင့်နုများနှင့်အဖူးများ

ဖြစ်လေသည်။ သဘော်ာ မဲဇလီသီးသည် အသီးတောင့် ဖြစ်လေသည်။

မြန်မာဆေးကျမ်းများအလိုအရ မဲဇလီခါး၊ သို့မဟုတ် သဘော်ာမဲဇလီရွက်သည် ခါး၏။ ဆီး ရှင်စေ၏။ သည်းခြေနာကို ငြိမ်းစေတတ်၏။ သွေးကိုသက်စေ၍ လေကိုပျက်စေတတ်၏ဟု ဆိုသည်။ ထို့ပြင် အရေပြားရောဂါများအတွက်လည်း ဆေးဖက်ဝင်သည်ဟု ဆိုကြသည်။ ပွေးပေါက်သော် အရွက်ရင့်များဖြင့် ပွတ်တိုက်ပေးက ပျောက်ကင်းနိုင်သည်။ ထို့ပြင် ဝမ်းချုပ်လျှင် အရွက်အနုများကိုငင်း၊ အဖူးအပွင့်များကိုငင်း ပြုတ်၍ တို့စားကြသည်။ ဟင်းချိုဟင်းခါးချက်၍လည်း စားသုံးကြသည်။ သုပ်၍လည်း စားကြသည်။ အရွက်နုများကို နေလှန်း၍ လက်ဖက်ခြောက် အကြမ်းကဲ့သို့လည်း သုံးစွဲကြသည်။ အဖူးအပွင့်များကို အခြောက်လှန်းပြီးသော် အမှုန့်ထောင်း၍ ဝမ်းနုတ်ဆေးတလက်ကဲ့သို့လည်း သုံးစွဲကြလေသည်။

အိန္ဒိယဆေးကျမ်းများအလိုမှာ အရွက်နုနှင့် အပွင့်ပြုတ်ရည်သည် ရေယုန်နှင့် အခြား အရေပြားရောဂါများအတွက်ငင်း၊ ကာလသားရောဂါနှင့် စပ်လျဉ်းသော အနာရောဂါများအတွက်ငင်း၊ အဆိပ်ရှိသော ပိုးမွှားကိုက်လျှင်ငင်း အသုံးပြုနိုင်သော ဆေးတလက်ဟုဆိုသည်။ အားတိုးဆေးရည် တမျိုးအဖြစ်လည်း သောက်သုံးနိုင်သည်။ ထို့ပြင် ဝမ်းနုတ်ဆေး၊ သလိပ်ရှင်ဆေး၊ သန်ချဆေးနှင့် ချုပ်ဆေး အဖြစ်လည်း သုံးနိုင်သည်။ အရွက်စိမ်း လတ်လတ်ဆတ်ဆတ်များကို အရည်ညှစ်၍ သံပရာရည်နှင့်ရောတိုက်လျှင် ကလေးများအတွက် သန်ချဆေးတလက်ဖြစ်သည်။ အစေ့များသည်လည်း အရေပြားရောဂါများအတွက် ဆေးဖက်ဝင်သည်ဟု ဆိုလေသည်။

**သဘော်ာရေကြက်**။ ။ရေကြက်ဒုံ — ရှု။

**သဘော်ာလက်ပံပင်**။ ။သဘော်ာ လက်ပံပင်မှ လဲ၊ သို့မဟုတ် မို့ ရရှိသဖြင့် ထိုအပင်ကို လဲပင် ဟူ၍ငင်း၊ မို့ပင် ဟူ၍ငင်း ခေါ်ကြသေးသည်။ ပင်စည်ဖြောင့်မတ်၍မြင့်မားသော သဘော်ာလက်ပံပင်များသည် ကမ္ဘာ့အပူပိုင်းဇုန်တွင် ပေ ၂,၀၀၀ မြင့်သောဒေသများအထိပေါက်ရောက်ဖြစ်ထွန်းသည်ကို တွေ့ရသည်။ လက်ပံပင်နှင့် မျိုးရင်းတူဖြစ်၍ ဗုံဗာကေစီအီး မျိုးရင်းတွင် ပါဝင်လေသည်။ မျိုးခွဲပေါင်း ၂၁ မျိုးနှင့် မျိုးစိတ်ပေါင်း ၁၅၀ ခန့် ရှိလေရာ ထင်ရှားသော မျိုးခွဲတို့မှာ စီဗာ၊ ဗုံဗတ်၊ ကော်ရီရှားနှင့် အော့ကရိုးမားတို့ ဖြစ်လေသည်။ ယင်းအပင်မျိုးတို့၏ အသီးအတွင်း၌ အစေ့များသည် လဲ၊ သို့မဟုတ် မို့ဟု ခေါ်ကြသော အမွေးများထဲ၌ နစ်မြုပ်နေကြလေသည်။

သဘော်ာလက်ပံမျိုးတို့အနက် အထင်ရှားဆုံးအမျိုးကို ရုက္ခဗေဒအမည်ဖြင့် စီဗာ ပင်တန်ဒြာ၊ သို့မဟုတ် တနည်းအားဖြင့်အီရီယိုဒင်ဒရွန် အန်ဖရက်တျူအိုဆမ်ဟုခေါ်သည်။ ထိုသဘော်ာလက်ပံမျိုးတို့သည် အမေရိကတိုက်၌ မူလပေါက်ရောက်သည်ဟု ယူဆကြသည်။ သို့သော် အာရှတိုက်အမျိုးနှင့် အမေရိကတိုက် အမျိုးတို့၌ ပင်စည်တွင် ဆူးတွက်ပုံ၊ အကိုင်းအခက်ထွက်ပုံ၊ အသီး၏ အရွယ်အစား၊ အသီးမှည့်ပွင့်ဟပုံ၊ လဲမျှင်၏အရှည်၊ အရောင်နှင့် လဲ၏ရုန်းကန်မှုတို့၏ ခြားနားကွဲပြားခြင်းတို့သည် အနည်းနှင့်အများ ရှိကြသဖြင့် ယင်းခြားနားမှုတို့ကို အခြေပြုကာ မျိုးပြားခွဲခြားလိုက်သည်။ ခွဲခြားလိုက်သော မျိုးပြားမှာ သုံးမျိုးဖြစ်ရာ အိန္ဒိယမျိုးကို စီဗာ ပင်တန်ဒြာ အင်ဒီကာဟူ၍ငင်း၊ အာဖရိကန်မျိုးကို စီဗာ ပင်တန်ဒြာ ကာရစ်ဗီယာဟူ၍ငင်း၊ အာဖရိကမျိုးကို စီဗာ ပင်တန်ဒြာ အာဖရိကာနနား ဟူ၍ငင်း ဖြစ်ပေသည်။

ထိုအပင်များသည်အိန္ဒိယနိုင်ငံအနောက်ပိုင်းနှင့်တောင်ပိုင်း ပူအိုက်သော ဒေသများ၊ သီဟိုဠ်ကျွန်း၊ ကပ္ပလီကျွန်းစု၊ မြန်မာနိုင်ငံ၊မလ္လာယုကျွန်းဆွယ်၊ဂျားဗားကျွန်းအင်ဒိုချိုင်းနားနှင့် အခြားအရှေ့တောင်အာရှနိုင်ငံများ၌ ပျံ့နှံ့ပေါက်ရောက်သည်။ အထူးသဖြင့် ဂျားဗားနှင့် ဖိလစ်ပိုင်ကျွန်းတို့၌ အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်လေသည်။

သဘော်ာလက်ပံပင်တို့သည် ပေ ၅၀ မှ ၁၀၀ အထိမြင့်မားနိုင်သော အပင်လတ်မျိုးဖြစ်သည်။ ပင်စည်၏ အရင်းတွင် ပျဉ်ပြားချပ်ကြီးများသဖွယ် ကျားကန်မြစ်ကြီးများ ရှိခြင်းသည် ထိုအပင်များ၏ ထူးခြားချက်တရပ်ပေတည်း။ ထိုကျားကန်မြစ်များသည် ၁၂ ပေမျှပင် ရှည်လျားသည်လည်း ရှိ၍ ပြက်မှာမူ လက်မအနည်းငယ်မျှသာ ကျယ်သည်။ အကိုင်းများသည် ဘေးသို့ ဖြောင့်တန်းစွာ ဖြန့်ကားလျက် ခရုပတ်လည်၍ ထွက်ကြသည်။ အကိုင်းအခက်များ နုစဉ်အခါနှင့် အပင်ပျိုများတွင် ဆူးရှိသည်။ အရွက်တို့သည် ရွက်မြှာခြောက်ခုမှ ကိုးခုအထိ ပါရှိတတ်သော ရွက်ပေါင်းဖြစ်၍ လက်ဝါးပုံသဏ္ဌာန် ရှိလေသည်။

နွေရာသီတွင် အရွက်များ ကြွေလေရာ ရွက်သစ်မလောင်းမီ အပွင့်များ ပွင့်သည်။အပွင့်တို့သည် စိမ်းဖန့်ဖန့်၊ သို့မဟုတ် ပန်းနုရောင်ရှိ၍ ပွင့်ဖတ်ငါးခုပါသော တပွင့်ချင်းပန်းပွင့်မျိုးဖြစ်ပြီးလျှင် ပွင့်ဖတ်အပြင်သားတွင် အမွေးနုနုကလေးများ ရှိလေသည်။

အသီးသည် ထိပ်ချွန်သော ဘဲဥပုံသဏ္ဌာန် ရှိ၍ မာကျောသည်။ခြောက်လက်မခန့်ရှည်၍ အချင်းနှစ်လက်မခန့်ရှိသည်။အပွင့်ပွင့်ပြီးသည်မှ နှစ်လ သုံးလအတွင်း၌ အသီးများ မှည့်ကြသည်။ အသီးအတွင်း၌ ပဲစေ့နှင့် သဏ္ဌာန်တူသော အနက်ရောင်အစေ့ များစွာရှိရာ ယင်းတို့သည်

ဖြူဖွေး၍ အရောင်ထွက်နေသော လဲ၊ သို့မဟုတ် မွှီးများ အတွင်း၌ နစ်မြုပ်နေကြလေသည်။ အသီးများ မှည့်လာလျှင် ပေါက်ကွဲထွက်ပြီးသော် အတွင်းမှ လဲများ ထွက်ကျလာတတ်သည်။ ထိုကြောင့် အသီးတောင့်များကို မမှည့်မီ ခူး၍ နေခြောက်လှန်းပြီးမှ လဲထုတ်ယူကြရလေသည်။

အသီးထဲမှ ထုတ်ယူသော လဲကို နေလှန်း၍ တုတ်ဖြင့် မွှေပေးကာ အစေ့များအောက်ကျကုန်အောင် ပြုလုပ်ကြရသည်။ ဂျားဗားကျွန်းနှင့် ဖိလစ်ပိုင်နိုင်ငံများတွင်မူ စက်များဖြင့် လဲနှင့် အစေ့များကို ခွဲထုတ်ကြသည်။လဲပင်တပင်၏ မွှီးအထွက်သည် အပင်သက်ကိုလိုက်၍ အနည်းအများ ရှိတတ်သည်။ လေးနှစ် ငါးနှစ်သား အပင်များသည် လဲတပေါင်ခွဲမှ နှစ်ပေါင် အထိ ထွက်တတ်၍ ၁၅ နှစ်သား အပင်များသည် ခြောက်ပေါင်မှ ကိုးပေါင်အထိ ထွက်တတ်သည်။ တပင်တည်းသည်ပင် တနှစ်နှင့် တနှစ် လဲထွက် မတူချေ။ တခါတရံ အထွက်လျော့၍ တခါတရံ အထွက် ဖိုပြန်သည်။ ပျမ်းမျှခြင်းအားဖြင့် အသီးတောင့် ၈၀ မှ ၁၀၀ ဆိုလျှင် လဲတပေါင် ထွက်လေသည်။

လဲတွင် အမျှင်ထဲ၌ လေခိုအောင်းနိုင်သောသတ္တိရှိသဖြင့် စပရင်ကဲ့သို့ ငြိမ့်သော သဘော ရှိသည်။ ထိုပြင် လဲ၏ အခြား နှစ်လိုဖွယ်ရာ ကောင်းသော အချက်များမှာ ပိုးမွှားများ ခိုအောင်းပေါက်ပွားခြင်း မရှိနိုင်ခြင်း၊ ရေအလွယ်တကူ မစိုနိုင်ခြင်း (ဖော့ထက်ပင် ရေတွင် ပေါ်နိုင်သော သတ္တိ ခြောက်ဆမျှ ပို၍ရှိသည်။)ဓာတ်မလိုက်နိုင်ခြင်း၊အပူဓာတ်၊ အအေးဓာတ်တို့ကို ကာကွယ်နိုင်ခြင်း၊ အသံလုံနိုင်ခြင်း စသည်တို့ ဖြစ်ကြပေသည်။ ထိုကြောင့် လဲကို ခေါင်းအုံး မွေ့ရာ ပြုလုပ်ရာ၌ အသုံးပြုကြသည်။ အနည်းဆုံး သုံးခါမျှ အခြောက်ပေါင်းတင်ခံနိုင်ခြင်း၊ စုခဲ၍ ချုပ်ပြား ဖြစ်ခြင်း မရှိသောကြောင့် ဆေးရုံသုံး ခေါင်းအုံး မွေ့ရာများအတွက် အထူးအသုံးဝင်လေသည်။ ထိုပြင် အသံလုံအခန်းများ အအေးခန်းများ၌လည်း လဲကို အတွင်းမှခံ၍ အသုံးပြုကြသည်။ ဒုတိယ ကမ္ဘာစစ် အတွင်းက သင်္ဘောနှင့် လေယာဉ်တို့၌ သုံးသော အသက်ကယ် အဝတ်များကိုလည်း လဲဖြင့်ပင် ပြုလုပ်ကြသည်။ တင့်ကားများ ဓာတ်မလိုက်နိုင်ရန်၊ ဘောတန်တားများ ပြုလုပ်ရန် အတွက်လည်း လဲကို အသုံးပြုကြသည်။ ထိုပြင် ရေမစိုစေလိုသော ပစ္စည်းများ၊ ရေပေါ်တွင် ပေါ်စေလိုသော ပစ္စည်းများ ပြုလုပ်ရာ၌လည်း ဖော့အစား လဲကိုပင် အသုံးပြုခဲ့ကြလေသည်။

ယခင်က သဘော်ာလက်ပံပင်မှရသော လဲသည် အထည်အလိပ် ရက်လုပ်၍ မရနိုင်ဟု ယူဆခဲ့ကြသည်။ အဘယ်ကြောင့် ဆိုသော် ထိုလဲ၏ အမျှင်တို့သည် ပြတ်လွယ်၍ ချောမွတ်ပြီး အကိုင်ရ ခက်သောကြောင့် ဖြစ်၏။ သို့သော် ထိုလဲ၏ ချည်မျှင်တို့ကို ရက်လုပ်နိုင်မည့် စက်မျိုးကို တီထွင်၍ရင်း၊ အခြားချည်မျှင်တို့နှင့် ရောနှော၍ရင်း အထည်ရက်လုပ်နိုင်ခဲ့ရာ ယခုအခါ ကတ္တီပါ မွေးရှည်၊ အားကစားဝတ်စုံ စသည်တို့ကို ရက်လုပ်နိုင်ကြပေပြီ။ မျိုးရင်းချင်းတူသော လက်ပံပင်မှလည်း သဘော်ာ လက်ပံ လဲနှင့် ဆင်ဆင် တူသော လဲကို ရရှိနိုင်သည်။ သို့သော် လက်ပံပင်တို့သည် ဆူးများသဖြင့် အပင်ပေါ် သို့တက်ရန် ခဲယဉ်းသောကြောင့် ထိုလဲကို ရောင်းချနိုင်လောက်အောင် စုဆောင်းခြင်း မပြုကြချေ။

ကမ္ဘာပေါ်တွင် သဘော်ာလက်ပံလဲမျိုးသည် ဂျားဗားကျွန်းနှင့် ဖိလစ်ပိုင်နိုင်ငံမှ အများဆုံးထွက်ရှိ၍ ထိုလဲမျိုးကို အသုံးပြုဆုံးသော နိုင်ငံမှာ အမေရိကန်ပြည်ထောင်စု ဖြစ်လေသည်။

သဘော်ာလက်ပံစေ့မှ ဆီ ထုတ်ယူရရှိနိုင်ရာ ဝါစေ့ဆီနှင့် ဆင်ဆင်တူသည်။ ထိုဆီကို စားသုံးနိုင်သည့်ပြင် ဆပ်ပြာလုပ်ငန်း၌လည်း အသုံးပြုကြသည်။ တရုပ်နိုင်ငံတွင် မြေပဲဆီနှင့် ရောနှောရောင်းကြသည်။ဥရောပတိုက်တွင် သဘော်ာလက်ပံစေ့ဆီ အကောင်းစားများကို ထောပတ်တု လုပ်ကိုင်ရာ၌ အသုံးပြုကြသည်။ ဆီထုတ်ပြီးသော အဖတ်များသည် အလွန်ကောင်းမွန်သော နွားစာဖြစ်လေသည်။

သဘော်ာလက်ပံသားသည် ပေါ့ပါး၍ ပျော့သည်။ အဖိုးတန် သစ်မျိုး မဟုတ်ချေ။ ဘောက်တူနှင့် ကလေးကစားစရာများကို သဘော်ာ လက်ပံသားဖြင့် ပြုလုပ် ကြသည်။ ထိုပြင် မီးခြစ်များလည်း ထိုအသားဖြင့်ပင် လုပ်ကိုင်ကြလေသည်။

အခေါက်မှ ဆေးဝါး၌ အသုံးပြုနိုင်သော ကော်တမျိုး ရရှိနိုင်သည်။ ထိုပြင် အခေါက်ကို သားရေနယ်ရာ၌ ဆိုးဆေးအဖြစ် အသုံးပြုသည်။ လျှော်အညှံစား တမျိုးကိုလည်း အခေါက်မှ ထုတ်ယူရရှိနိုင်လေသည်။

အိန္ဒိယဆေးကျမ်းများအလိုအရ သဘော်ာလက်ပံပွင့်ကို ဘိန်းစေ့နှင့်ရော၍ ပြုတ်ပြီးလျှင် သကြား၊ ဆိတ်နို့ တို့ဖြင့် ပျစ်ပျစ်ဖျော်၍တိုက်လျှင် မြင်းသရိုက်နာအတွက် ကောင်းသည်ဟု ဆိုသည်။ ကင်းကိုက်သော် အမြစ်ကို သွေးလိမ်းရသည်။ အပင်ငယ်၏ ရေသောက်မြစ်သည် ဝမ်းကိုက်ရောဂါ၊ ညောင်းကျ ရောဂါများအတွက် ကောင်းသည်။ ညောင်းကျရောဂါအတွက် အရွက်များကို ကြိတ်၍လည်း အသုံးပြုနိုင်လေသည်။

သဘော်ာလက်ပံပင်ကို အစေ့စိုက်၍လည်း ရသည်။ သို့သော် အကိုင်းဖြတ်စိုက်ခြင်းက ပို၍ ကောင်းသည်။ စိုက်ခင်းများတွင် တပင်နှင့် တပင် ၁၅ ပေခန့်ခွာ၍ စိုက်ပျိုးသင့်သည်။ လမ်းဘေးများတွင်မူ တပင်နှင့် တပင် ရှစ်ပေမှ ၁၀ ပေခန့်အထိ ခွာ၍ စိုက်သင့်သည်။ အချို့ ဒေသများတွင်

ထိုအပင်များ၌ ငှက်ကောင်းပင် များကို နွယ်တက်စေလေသည်။

**သင်းဝင်ပင်။** ။မြန်မာနိုင်ငံတွင် သင်းဝင် အမည်ဖြင့် ခေါ်တွင်သော သစ်ပင်မျိုး နှစ်မျိုးသုံးမျိုးမက ရှိလေသည်။ ယင်းတို့အားလုံးသည် ရုက္ခဗေဒ အလိုအားဖြင့် မျိုးရင်းမျိုးခွဲ အတူတူပင် ဖြစ်၍ မျိုးစိတ် အားဖြင့်သာ ခြားနားကြသည်။ ရှမ်းဘိုခရိုင်၊ မော်လိုက်ခရိုင်၊ပဲခူးရိုးမနှင့် တနင်္သာရီတိုင်း သစ်တောများတွင် အများအပြား ပေါက်ရောက်သော သင်းဝင်ပင်မျိုးသည် ပါပီလီယိုနေးစီအီး မျိုးရင်းဝင်ဖြစ်၍ ရုက္ခဗေဒ အမည်အားဖြင့် မီလက်ရှား ပင်ဒျူလာဟု ခေါ်သည်။ ကသစ်၊ ပေါက်၊ ပေါက်ပန်းဖြူ နီတို့နှင့်လည်း မျိုးရင်းတူပင် ဖြစ်သည်။ အပင် အလတ်စားမျိုးဖြစ်၍ ပေ ၇၀ မှ ၈၀ အထိ မြင့်ပြီးလျှင် ပင်စည်လုံးပတ် ခြောက်ပေမှ ခုနစ်ပေအထိ ရှိသည်။

သင်းဝင်ပင်၏ ပင်စည်သည် အပွေးချော၍ အဖုကွက်များပေါ်နေသည်။ အညွန့်များတွင် ပိုးမျှင်နှင့်တူသော အမွေးများ ရှိသည်။ အရွက်သည် စိမ်းစို ပြောင်ချော၍ အရွက်သုံးစုံ ငှက်မွေးပုံထွက်သည့် ရွက်ပေါင်း ဖြစ်သည်။ အရွက်အညှာ တုတ်သည်။

အပွင့်များသည် အဖြူရောင်ဖြစ်၍ ပဲပန်းပွင့်များကဲ့သို့ လိပ်ပျာ ပုံသဏ္ဌာန်ရှိသည်။ အသီးတောင့်သည် ပြားပြီးလျှင် သားရေကဲ့သို့ မာသည်။ အရင်း အဖျား ချွန်သည်။ အတောင် မပါချေ။ အသီးတောင့်သည် အညိုရောင် ဖြစ်၍ အသီးတောင့် တတောင့်လျှင် အစေ့တစေ့မှ သုံးစေ့အထိ ပါလေသည်။

အစေ့ကို ပျိုး၍ဖြစ်စေ၊ ကိုင်းဖြတ်၍ဖြစ်စေ အပင် ပွားစေနိုင်သည်။ အတော်အသင့် ကြီးထွား မြန်၍ အကိုင်းအခက်တို့ ဝေဝေဆာဆာ ရှိသဖြင့် လမ်းနံဘေးတွင် အရိပ်ရရန် စိုက်ပျိုးနိုင်သည်။ မိုးများသောဒေသ၌ သင်းဝင်ပင်တို့သည် အမြဲစိမ်းလန်းနေ၍ ကြီးထွားကြသည်။ မိုးပါးသော ဒေသ၌မူ နွေရာသီအခါ၌ တခါတရံ အရွက်ကြွေကြလေသည်။

ထိုသင်းဝင်မျိုး၏ အနှစ်သားသည် ခရမ်းရင့်ရောင်၊ သို့မဟုတ် အညိုရောင်ရှိ၍ အစင်း အကြောင်းများ ထင်းထင်းပေါ်လျက် လှပသည်။ သို့သော် အိမ်ထောင် ပရိဘောဂပစ္စည်း ပြုလုပ်ရန် အတွက် အနှစ်သား ကြီးကြီးမားမား မရနိုင်ချေ။

သင်းဝင်သားသည် အခြား သစ်များထက် လွန်လွန်ကဲကဲ မာကျော၍ လေးလံသည်။ စိုထိုင်းဆ ၁၂ ရာခိုင်နှုန်း ပါ၍ ကုဗတပေလျှင် ၆၉ ပေါင် လေးသည်။ ခွဲစိတ် ဖြတ်တောက်ရန် ခက်သော်လည်း စက်ဖြင့် ပုံသွင်းရာ၌မူ ပွန်းခြင်း ပဲ့ခြင် မရှိ၍ လက်ဖြင့် အချောသတ်ရန်ပင် မလိုလှချေ။ ဖယောင်းဖြင့် ဖြစ်စေ၊ အရောင်တင်ဆီတမျိုးမျိုးဖြင့် ဖြစ်စေ အရောင်တင်၍လည်း အလွန်ကောင်းသည်။ တာရှည်ခံသော သစ်သားမျိုးဖြစ်၍ အိမ်တိုင်များ၊ ထွန်ရိုး ထွန်သန်များ ပြုလုပ်ရန် အသုံးများသည်။ တခါတရံ တန်တားများကိုလည်း သင်းဝင်သားဖြင့်ပင် ဆောက်လုပ်ကြသည်။သို့သော် သင်းဝင်သားကို အသားသေအောင် ပြုရန် မလွယ်ချေ။

အထက်ဖော်ပြပါ သင်းဝင်မျိုးနှင့် မျိုးရင်း မျိုးခွဲတူဖြစ်၍ သင်းဝင်ဖိုဟု ခေါ်သော သစ်ပင်မျိုး ရှိသေးသည်။ ရုက္ခဗေဒအမည်အားဖြင့် မီလက်ရှား ပူဗီနာဗစ်ဟု ခေါ်သည်။ သစ်ပင်ငယ်မျိုးဖြစ်၍ မြန်မာနိုင်ငံ သစ်တောများတွင် တွေ့ရသည်။ အထူးသဖြင့် မေမြို့၊ မြစ်ကြီးနားနယ် အတွင်း၌ ပေါက်ရောက်သည်။

သင်းဝင်စပ်ဟု ခေါ်သော သင်းဝင်ပင်မျိုးလည်း ရှိသေးသည်။ ပါပီလီယိုနေးစီအီး မျိုးရင်းဝင်ပင် ဖြစ်၍ မျိုးခွဲသည်လည်း မီလက်ရှား မျိုးခွဲပင် ဖြစ်သည်။ ရုက္ခဗေဒ အမည် အားဖြင့် မီလက်ရှား ပါလခရာဟု ခေါ်သည်။ မြန်မာနိုင်ငံ အထက်ပိုင်း သစ်တောများ၌ တွေ့ရသည်။ သင်းဝင်စပ်ကို ဆွဲသီးပင်ဟုလည်း ခေါ်ကြလေသည်။



သင်းဝင်ပင်ကို အရိပ်အတွက် လမ်းဘေးများတွင် စိုက်လေ့ရှိသည်။



သင်းဝင်ပင်၏ အရွက်များ

ထိုပြင် သင်းဝင်ဖြူဟု ခေါ်ကြသော အပင်မျိုးလည်း ရှိသေးသည်။ အထက် ဖော်ပြပါ သင်းဝင်မျိုးတို့ နှင့် မျိုးရင်းတူ ဖြစ်သည်။ သို့သော် ပွန်ဂါမီယား မျိုးခွဲတွင် ပါဝင်၍ ရက္ခဗေဒ အမည်မှာ ပွန်ဂါမီယား ပင်နေတာဟု ခေါ်သည်။ ပဲခူး၊ စစ်တွေ စသော ပင်လယ် ကမ်းရိုးတန်းဒေသ သစ်တောများ၌ ပေါက်ရောက်သည်။ သင်းဝင်ဖြူသည် အပင် အလတ်စားမျိုးဖြစ်သည်။ အရွက် များသည် ငှက်မွေးပုံ ထွက်၍ ပြောင်ချောနေသည်။

သင်းဝင်ဖြူ၏ အသားသည် ဖြူရောင်ရောင် ဝါရောင် ရောင် ဖြစ်သည်။အတော်အသင့်အသား မာ၍ တောင့်တင်း သန့်မာသော သစ်သားမျိုးဖြစ်သည်။ သို့သော် ကြာရှည်မခံချေ။ ရေထဲတွင် နှစ်၍ အသား သေအောင် ပြုရသည်။ ခွဲစိတ်ဖြတ်တောက်ရန် အတော်အသင့် လွယ်ကူသည်။ ကုဗတပေလျှင် ၄၂ ပေါင် လေးသည်။ သင်းဝင်ဖြူသားကို ဆီဆုံများ ဆောက်လုပ်ရန်အတွက်ငှင်း၊ လှည်းထမ်းပိုးနှင့် လှည်းဘီးများ ပြုလုပ်ရန်အတွက်ငှင်း အသုံးဝင်လေသည်။

သင်းဝင်ဖြူပင်၏ အပွင့်တို့သည် အခြား သင်းဝင်ပင်၏ အပွင့်တို့ကဲ့သို့ပင် လိပ်ပျာ ပုံသဏ္ဍာန်၊ သို့မဟုတ် ပဲပန်းကလေးများနှင့် တူသည်။ ကသစ်၊ ပေါက်တို့ကဲ့သို့ အသီးတောင့်မျိုး သီးသည်။

ဒဗ္ဗဂုဏပကာသနီ မြန်မာဆေးကျမ်းအလိုအရ သင်းဝင်သီးသည် ဝမ်းကို ခိုင်စေ၏။ သလိပ်နှင့်တကွ သည်းခြေကို နိုင်၏ဟု ဆိုသည်။ အိန္ဒိယ ဆေးကျမ်းများကမူ အသီးစိမ်း လတ်လတ်ဆတ်ဆတ်သည် ခံတွင်း ကောင်းစေ၏။ ချုပ်စေတတ်သော သတ္တိရှိ၏။ ရေငတ်ပြေစေ၍ သလိပ်ကို ပွားစေ၏။ အသီးမှည့်သည် ခံတွင်းလိုက်စေ၏။ အပူကျစေ၏။ သည်းခြေကို နိုင်၍ ရေငတ် ပြေစေ၏ဟု ဆိုသည်။

သင်းဝင်ဖြူပင်၏ အပွင့်သည် ဆီးချိုရောဂါ အတွက် ကောင်းသည်။ ကြက်ညှာချောင်းဆိုးသူများကို လည်ပင်း၌ အသီးဘောင့်များ ဆွဲထားပေးရသည်။ အစေ့ကို ပြုတ်၍ အမှုန့်ပြုပြီးလျှင် ကြက်ညှာ ချောင်းဆိုးရောဂါအတွက် သုံးနိုင်၏ဟု အိန္ဒိယဆေးကျမ်းများ၌ ဆိုသည်။ အိန္ဒိယ ဆေးကျမ်းတခု၏ အဆိုမှာ သင်းဝင်ဖြူ အစေ့သည် အရေပြားရောဂါအတွက် ကောင်း၏။ အခေါက်သည် လိပ်ခေါင်းရောဂါအတွက် ကောင်း၏။ အမြစ်သည် အနာစိမ်းများ အတွက် ကောင်း၏ဟုပင် ဆိုလေသည်။

**သောင်တင်းငှက်။** ။သီဖဟူ၍လည်းခေါ်သော သောင်တင်းငှက်သည် ကရက်ရီအီးဖော်မီး မျိုးစဉ်တွင် ဂလာရီအိုလီဒီး မျိုးရင်း၌ ပါဝင်၍ ပါဏဗေဒ အလိုအရ ဂလာရီအိုလာ လက်ဘီးဟုခေါ်သည်။ အလျား ခုနစ်လက်မ ရှိသည်။ ပျံသန်းစဉ် ရှေ့ပိုင်း ညို၍ နောက်ပိုင်းဖြူနေသော အရောင်နှစ်မျိုးရှိသည့် အတောင်ကို ထင်ရှားစွာ တွေ့ရသည်။ အမြီး၌ အဖြူစင်းများ ပါရှိသည်။ ပျံသန်းရာတွင် ပျံလွှားငှက်များကဲ့သို့ အလွန်တရာ ငြိမ့်ညောင်းလှပေသည်။ အသံမှာ တိုးသော်လည်း စူးရှ၍ မကြာခဏ အော်တတ်ကြသည်။

သောင်တင်းငှက်များကို ရေဝတီမြစ် တလျှောက်တွင် တွေ့ရသည်။ ရေပေါ်၌ အုပ်ကြီးများဖွဲ့၍ ပျံနေသည်ကိုငှင်း၊ သဲသောင်ပြင်များတွင် ပြေးလွှားနေသည်ကိုငှင်း တွေ့ရတတ်သည်။ ခြေတိုသော်လည်း ကုန်းပေါ်တွင် လျင်မြန်စွာ ပြေးနိုင်သည်။ နေ့အချိန်များထက် နေဝင်ရီတရော အချိန်တွင် ပို၍ မြူးတူးကြသည်။ ရေအိုင်များတွင် များသောအားဖြင့် ကျက်စား၍ ပိုးမွှားများကို စားသောက်ကြသည်။

ပြေ့ဖြီလတွင် သောင်တင်းငှက်ကလေးများ ဥမှ ပေါက်ကြသည်။ အသိုက်များကို သဲသောင်ပြင်တွင် တစုတဝေး ပြုလုပ်တတ်ကြသည်။ သောင်တင်းငှက်အုပ်အနီးသို့ ကပ်သွားလျှင် အထူးပင် လန့်ဖျပ် သွားကြသည်။ အချို့ ငှက်များသည် ရေပေါ်တွင် ရုပ်၍ ပျံပြီးလျှင် အသံအမျိုးမျိုးဖြင့် အော်ကြ၏။ အချို့ကမူ အထက်မှ အောက်သို့ ထိုးဆင်းလာပြီးလျှင် ဒဏ်ရာတခုခု ရရှိသွားဘိသကဲ့သို့ တောင်ပံကို သဲပေါ်တွင် တဖတ်ဖတ် ရိုက်ခတ်နေတတ်သည်။ ဥများကို အရိပ်ရအောင် သစ်ရွက်ခြောက် မြက်ခြောက်များနှင့် ဖုံးအုပ်ထားသော်လည်း သဲပေါ်တွင် ထင်ထင်ရှားရှား ပေါ်လျက် ရှိနေတတ်သည်။ တမြုံလျှင် ဥနှစ်လုံးမှ လေးလုံးအထိ ရှိတတ်သည်။ ဥများမှာ စိမ်းဖျော့ဖျော့ အရောင်မှ သဲအရောင် အထိ အရောင်အမျိုးမျိုး ရှိ၍ အစက်အပြောက်များ အမျိုးမျိုးပါရှိသည်။ ယင်းတို့ကို အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံနှင့် သီဟိုဠ်ကျွန်းရှိ မြစ်ကြီးများ၌သာ တွေ့ရသည်။

**သောင်ဖျက်စက် နှင့် မြေတူးစက်။** ။မြစ်များ၊ အိုင်ကြီးများ၊ ချောင်းများနှင့် အခြားရေရှိနေရာများအောက်မှ နုံး၊ ဗွက်၊ ရွှံ့ညွန်၊ သဲ၊ မြေ နှင့် ကျောက်များကို ဒရက်ဂျာခေါ် သောင်ဖျက်စက်ဖြင့် တူးဖော် ယူရလေသည်။ သင်္ဘောငြိမ်ရန် ဝမ်းထဲတွင်ထည့်ရသော ကျောက်ခဲများ ရစေရန်အတွက်သော်၎င်း၊ မြေနိမ့်နေရာများ ဖို့ရန်အတွက် သော်၎င်း သောင်ဖျက်စက်ကို အသုံးပြုရသည်။ သောင်ဖျက်စက် ဟုပင် ခေါ်သော်လည်း မြစ်များ သောင်ထွန်းသဖြင့် တိမ်သွားသည့်အခါ နက်အောင် သောင်ကို ခုတ်ရုံမျှမက ကျဉ်းနေလျှင်လည်း ကျယ်အောင် ပြုလုပ်ပေးနိုင်သည်။ ထို့ပြင် မြစ်ကြောင်း ကောက်နေလျှင်လည်း ဖြောင့်ပေးနိုင်သည်။ သင်္ဘောဆိပ်များ တိမ်နေလျှင်လည်း နက်အောင် တူးပေးနိုင်ပြီးလျှင် ပင်လယ်အော်များကိုလည်း အလားတူ တူးပေးနိုင်သည်။ ရေတာရိုးများ၊ မြစ်ကူးတန်တားများ၊ မီးပြတိုက်များ ဆောက်လုပ်ရာ၌လည်း သောင်ဖျက်စက်ကို အသုံးချနိုင်သည်။ ရွှေ၊ ပလက်တီနမ်၊ သံဖြူနှင့် အခြားသော သတ္တုများကို မြစ်များအတွင်းရှိ ရွှံ့နွံထဲတွင် ရှိပုံပေါ်လျှင် ထိုစက်များဖြင့် နွံများကို တူးဖော်ပြီးလျှင် ရှာဖွေ ယူနိုင်လေသည်။

အများအပြား အသုံးပြုလေ့ရှိကြသည့် သောင်ဖျက်စက်များတွင် ကော်ပြားများရှိကြ၏။ ထိုစက်များဖြင့် မြစ်များကို ပြုပြင်ပေးလေ့ရှိကြ၍ တူးမြောင်းများကိုလည်း ထိုစက်မျိုးဖြင့်ပင် တူးလေ့ရှိကြသည်။ ထိုစက်မျိုးတွင် မောင်းရှင်များ ရှိ၍ မြေထဲသို့ ထိုး၍ သွင်းနိုင်သည့် ကော်ပြားများ တပ်ထားသည်။ ထို ကော်ပြားများကို မောင်းရှင်များဖြင့် မ ယူ၍ ပါလာသည့် မြေ၊ သို့မဟုတ် နုံးများကို ချလိုသည့်နေရာသို့ ရောက်သောအခါတွင် ကော်ပြား၏ အောက်ပိုင်းရှိ လက်ယှက်ခလုတ်ကြိုးကို ဆွဲ၍ချရလေသည်။ အချို့ သောင်ဖျက်စက်များတွင် မြေကြီးကို ကျုံးယူနိုင်သော ခပ်ခွက်ကြီးများ တပ်ဆင်ထားကြသည်။ ခပ်ခွက်နှစ်ခုကို ကျားပါးစပ်ကဲ့သို့ အပေါ်ပိုင်းတွင် ပတ္တာချက်ဖြင့် ဖွင့်နိုင်ပိတ်နိုင်ရန် စီမံထားသည်။ ထိုခပ်ခွက်များကို ယက်မတခုမှ စက်သီးမောင်းများဖြင့်



ရွှံ့နှင့်သဲများကို ကျုံးယူနိုင်သောခွက်ကြီးများ တပ်ဆင်ထားသည့် သောင်ဖျက်စက်



ရွှံ့နှင့်သဲများကို ရေနှင့်ရောစေပြီး လေဖိအားဖြင့် ပြွန်များမှ မှုတ်ထုတ်ယူရသော သောင်ဖျက်စက်

ရှိသော ရေများကို ပြွန်များဖြင့် စုတ်ယူပြီးလျှင် ဗုံဗိုင်များဖြင့် ထုတ်ပစ်ကြလေသည်။ ထိုကဲ့သို့သော စက်မျိုးကို ဟိုက်ဒြောလစ် သောင်ဖျက်စက်ဟု ခေါ်သည်။ ထိုစက်မျိုးများကို ကမ်းနားရှိ မြေနိမ့်နေရာများကို မြင့်လာအောင် ပြုလုပ်ပေးရာတွင် အသုံးပြုပြီးလျှင် သဘာဝရေကြောင်းများကို ပြုပြင်ရာ၌လည်း အသုံးပြုလေ့ရှိကြသည်။ အခြားစက်တမျိုးမှာ ရွှံ့နွံများနှင့် သဲများကို ရေနှင့် ရောသွားအောင် မွှေနှောက်ပေးသော စက်ဖြစ်သည်။ ထိုသို့ မွှေနှောက်ပေးလိုက်သောအခါ ရွှံ့နွံများ ချပေးပြီးလျှင် မယူနိုင်လေသည်။ အချို့သော ခပ်ခွက်များ၏ ပုံသဏ္ဌာန်များမှာ သုံးထောင့်ပုံရှိ၍ လက်ယှက်များကို ပိတ်လိုက်သောအခါတွင် လိမ်မော်ခွံပုံသဏ္ဌာန်ဖြစ်လာပြီးလျှင် အတွင်း၌လည်း သယ်ယူလိုသည့် ပစ္စည်းများ ပါလာနိုင်သည်။ သို့သော်လည်း ဤကဲ့သို့သော စက်မျိုးကို ရေနက်များ၌သာလျှင် အသုံးပြုကြလေသည်။



ရွှံ့နှင့်သဲများကို မွှေနှောက်ပေးလိုက်သောအခါ ရွှံ့များသည် ရေနှင့်ရောကာ စီးကျသွားသည်။

အထက်ပါ သောင်ဖျက်စက် နှစ်မျိုးသည် ပြတ်တောင်းပြတ်တောင်း တူးသည့် စက်မျိုးသာ ဖြစ်၍ အဆက်မပြတ် တူးနိုင်သော စက်မျိုးလည်း ရှိသေးလေသည်။ ဆူးအက် တူးမြောင်း၊ ပနားမား တူးမြောင်းကြီးများကဲ့သို့သော တူးမြောင်းများကို တူးဆည်သည့် အခါတွင် လှေကားထစ်များကဲ့သို့ ထက်၍ အထစ်ကြီးများ ရှိသည့် ပုံးကြီးများကို သုံးကြ၏။ ထိုပုံးကြီးများသည် ဘီးကြီးများပေါ်တွင် အရှိန်ပြင်းပြင်း လည်လျက်ရှိသည်။ အခြား အဆက်မပြတ် တူးနိုင်သည့် စက်တမျိုးမှာ မြေကြီးကို လည်နေသည့် ခုတ်စက်များက ဆွပေးပြီးလျှင် ရေနှင့်ရောစေ၏။ ထိုမြေနှင့်ရောလျက်သည် ရေနှင့်ရောကာ စီးကျသွားလေသည်။ မြစ်တွင်းရှိ သဲတန်းများကို တူးပစ်ရာတွင် ထိုစက်မျိုးကို အသုံးပြုလေ့ရှိကြသည်။ နျူမက်တစ် သောင်ဖျက်စက်များသည်လည်း အဆက်မပြတ် တူးနိုင်သော စက်တမျိုးပင် ဖြစ်သည်။

ထိုစက်မျိုးသည် ရွှံ့နွံများကို ရေနှင့်ရောစေပြီးလျှင် လေဖိအားဖြင့် ပြွန်များမှ မှုတ်ထုတ်လိုက်သည်။ မြေများကို ဝေးဝေးသို့ ရောက်အောင် ပို့လိုသောအခါ၌



မြေများကို တူးပြီးနောက် သယ်ယူနိုင်သော မြေတူးစက်

ဖြစ်စေ၊ ကမ်းခြေများကို မြင့်အောင် ပြုလုပ်လိုသောအခါ၌ ဖြစ်စေ ဤစက်မျိုးကို အသုံးပြုလေ့ရှိကြသည်။

မြေတူးစက်သည် မြေကိုတူးသောအခါ တူရွင်းငန်းပြားများကို ရေနွေးငွေ့ဖြင့်လည်စေ၍ တူးသည်။ ထိုစက်မျိုးသည် သောင်ဖျက်စက်မျိုး နှင့် မခြားနားလှသော်လည်း သောင်ဖျက်စက်တွင် မြေကြီးနှင့် ရွှံ့နွံတူးသည့် ကရိယာများကို သင်္ဘောတွင်တပ်ဆင်ထားကြ၍ မြေတူးစက်တွင်ကား တူးဖော်သည့် ကရိယာများဖြစ်သော တူးရွင်းငန်းပြားများကို ထရပ်ကြီးများပေါ်တွင် တပ်ဆင်ထားကြသည်။ ထိုစက်မျိုးကို ကုန်းပေါ်တွင် မီးရထားလမ်းအတွက်ဖြစ်စေ၊ လမ်းများအတွက်ဖြစ်စေ၊ ကျုံးများမြောင်းများအတွက် ဖြစ်စေ မြေတူးဖော်ရန် အသုံးပြုကြလေသည်။

**သိုင်းပညာ။** ။သိုင်းပညာသည် ရန်ကို ကာကွယ်ခုခံတိုက်ခိုက်သည့် ရှေးဟောင်း အတတ်ပညာတခု ဖြစ်သည်။ ရှေးခေတ်က ဤပညာကို လျှို့ဝှက်စွာ သင်ကြားကြရသည်။ ယခုခေတ်တွင်ကား မိမိတို့၏ ဝါသနာပါရာ သိုင်းပညာ အမျိုးအစားများကို တတ်မြောက်သည့် ပညာရှင်များထံ၌ မလျှို့ဝှက်ပဲ ပွင့်လင်းစွာ သင်ကြား နိုင်ကြလေသည်။

သိုင်းပညာခွင်တွင် တုတ်၊ ဓား၊ လှံ စသော လက်နက်များကို ကိုင်၍ ခုခံတိုက်ခိုက်သည့် ဗန်ရှည် အတတ်အပြင်၊ မည်သည့် လက်နက်ကိုမျှ မကိုင်မစွဲပဲ ခုခံ တိုက်ခိုက်သည့် ဗန်တို အတတ်၊ လက်ဝှေ့ အတတ်၊ နပမ်း အတတ်များ ပါဝင်သည်။

ကျွမ်း ကျင် သော သိုင်းသ မား ကောင်း တ ယောက်သည် မိမိထက် အင်အားသာသူကိုဎင်း၊ တုတ်၊ ဓား၊ လှံ စသော လက်နက် စွဲကိုင်လာသူကိုဎင်း၊တယောက်ချင်းရန်ကိုဎင်း၊ တယောက်ထက်ပိုသော ရန်ကိုဎင်း ကောင်းစွာ ကာကွယ် ခုခံ တိုက်ခိုက်နိုင်သည်။

တုတ် နှင့် ကာကွယ် ခုခံ တိုက်ခိုက်သည်ကို တုတ်သိုင်း ဟုခေါ်သည်။ ဓားနှင့် ကာကွယ် ခုခံ တိုက်ခိုက်သည်ကို ဓားသိုင်း ဟုခေါ်သည်။ လှံနှင့် ကာကွယ် ခုခံတိုက်ခိုက်သည်ကို လှံသိုင်းဟုခေါ်သည်။ လက်နက်မကိုင်ပဲ ကာကွယ် ခုခံတိုက်ခိုက်သည်ကို လက်သိုင်း ဟုလည်း ခေါ်သည်။ ဗန်တိုဟုလည်း ခေါ်သည်။ (ဗန်တို ဗန်ရှည် — လည်းရှု။)

ရှည်လျားခိုင်ခံ့သည့် ရာဇဝင်သမိုင်း နောက်ခံရှိသော အရှေ့တိုင်း နိုင်ငံများ၌ဎင်း၊ အနောက်တိုင်း နိုင်ငံများ၌ဎင်း မူပိုင် သိုင်းပညာများ အသီးအသီး ရှိတတ်ကြသည်။

**မြန်မာ သိုင်းပညာ။** ။မြန်မာသိုင်းပညာ၏ သက်တမ်းသည် အလွန်ရှည်ကြာခဲ့ပြီ ဖြစ်သည့်အလျောက် နည်းနိသျည်းနှင့် နည်းပရိယာယ်များ၊ ပညာခန်းများသည် ကြွယ်ဝ များပြားလှသည်။

ရှေးခေတ်က မြန်မာဘုရင် မင်းမိဖုရားများ၊ အိမ်ရှေ့စံ မင်းသား မင်းသမီးများ အခမ်းအနား အဆောင်အယောင်နှင့် ထွက်ကြွမြန်းချီကြသည့် အခါများတွင် ရှေ့မှ တုတ်ကိုင်၍ စောင့်ရှောက် လမ်းရှင်းပေးရသူ၊ နောက်မှ တုတ်ကိုင်၍ စောင့်ရှောက် အကာအကွယ် ပေးရသူများ လိုက်ပါကြရသည်။ ထိုသူများကို သိုင်းကိုင်များဟု ခေါ်သည်။ ရှေ့မှ တုတ်ကိုင် အစောင့်အရှောက်များ ပါသည်ကို ရှေ့သိုင်း ဟုခေါ်သည်။ နောက်မှ တုတ်ကိုင် အစောင့်အရှောက်များ ပါသည်ကို နောက်သိုင်း ဟုခေါ်သည်။

ဘုရင်၊ မိဖုရား၊ မင်းသား၊ မင်းသမီးတို့ ထွက်ချီ မြန်းကြွလာသည့် အခမ်းအနားများတွင်သာ မက ဘုရင်မင်းမြတ် အသုံးပြုရန် ရေခတ်လာသည့်အခါ ဖြစ်စေ၊ စားသောက်ရန် ပွဲတော်အုပ်ကို ယူဆောင်လာသည့်အခါ ဖြစ်စေ ရှေ့သိုင်း နောက်သိုင်း ဝန်းရံ ယူဆောင်လာတတ်ကြောင်း စာပေ အထောက်အထားများ၌ တွေ့ရလေသည်။



နည်းပရိယာယ်နှင့် ပညာခန်းကြွယ်ဝလှသည့် မြန်မာ့ရိုးရာ ဓားသိုင်း

ဤသို့ ဘုရင်မင်းမြတ် အသုံးပြုရန် ရေခတ်ပုံနှင့် စပ်လျဉ်း၍ ရကန်ဆရာကြီး ဦးတိုးက သူ၏ ရာမရကန် အခန်း ၅ ဝတ်လဲတော်ချီး၊ သံတမန်စေခန်း၌ —

''ရေချင်းပင် ရေသော်လည်း၊ ချိုးရေ၊ သုံးရေ၊ သောက်ရေများလည်းတဌာန။ ။ရှေ့သိုင်းနောက်သိုင်း၊ မထိုင်ကိုင်းရမည်၊ မင်းသိုင်းမင်းရေ၊ ဟဲ့ ထိုင်လေသားနှင့်၊ ညနေချိန်တန်၊ ရွှေနန်းပြန်တို့၊ မာန်ဘရချ၊ ငါ့ပွဲကတော့၊ ဘော်ကြော့လူဆန်း၊ ချိုးရေထမ်းလို့၊ စိတ်ကြမ်းခံရာတွင်၊ နံ့တိုကိုင်းရအောင်၊ရွှေသိုင်းတော်နှင့်ချလိမ့်။ ။အကြောင်းကိုပြ၊ ဘယ့်နှယ်ကာလလို့၊ အကျိုးအရနားလည်စေ။ ။စာတော်လူတော် ရွှေသိုင်းတော်ကို၊ညာတော်သောဘယ်တော်သော၊ ငါတော်၍ ကောသလ၊ ငါတော့်ကျောကို၊ ဗျောလိုက်အောင် ချိုင်၊ သိုင်းတော်က ကိုင်သောအခါ၊ ဂုဏ်ခိုင်သည် ငါတော်၊ ဘေးတော် ခေါ် ၍၊ ကျောတော် မှုန့်မှုန့်ကြေလိမ့်''

ဟူ၍ မိမိရကန်ကိုရှေ့သိုင်းနောက်သိုင်းနှင့်ဝန်းရံသယ်ဆောင်ရသော မင်းရေနှင့်နှိုင်း၍ တပါးသောရကန်များကိုပွဲကတော့ ချိုးရေထမ်းများ အနေနှင့် ကန်ကျောက်စပ်ဆိုထားသည်ကို တွေ့ရလေသည်။

ထိုမျှမကသေး၊ ရှေးအခါက ဘုရင် မင်းမြတ်အား ဆက်သရန် သန့်စင်ပန်းကိုပင် သိုင်းအခြံအရံနှင့် သယ်လာရကြောင်းကို ရာမရကန် အခန်း ၁၄ သဇင်ပန်းချီး တိုင်းပြည်ပြန် တောခန်း၌ —

''ပါရမီဂုဏ်၊ သင့်ရုံဟုတ်ဘူး၊ ကံထူးသည့်ပန်း၊ လမ်းခဲ့ျခဲ့ျ၊ မခဲ့ျခဲ့ျ ဆုတ်ဟဲ့ဘဲ ဆိုဆို၊ မဆိုဘဲ လာလာ၊ သူ့မို့ပါလျှင်၊ ရွှေအာဏာခေါင်၊ သိုင်းပြောင်ပြောင်နှင့်၊ ရှောင်ရသည်၊ လွှဲရသည်၊ ပန်းပံ့များဘုရင်ကို''ဟူ၍ရင်း၊

ထိုပြင် နန်းတွင်းသူကလေး အဆောင်အယောင်နှင့် ထွက်ချီလာပုံကို

''ရွှေနန်းတော်သူ၊ နေမပူ လေမလျှပ်၊ ထူးမြတ်သည့်ပါရမီ၊ ကျောက်စီယာဉ်စီး၊ ရွှေထီးဆောင်းမျိုး၊ ရိုးဆင့်ရှက်ဆင့်၊ မိုးလောက်မြင့်၊ သိုင်းနှင့် ကျိုင်းနှင့်လာသကို''ဟူ၍ရင်း စပ်ဆိုခဲ့ပေသည်။

ယင်းအဆောက်အထားများအရ လမ်းရှင်းလင်းခြင်းနှင့် ဘေးရန်ရှင်းလင်းကာကွယ်တိုက်ခိုက်ခြင်းများအတွက် အသုံးပြုသည့်ထီးသုံးနန်းသုံးအဆောင်အယောင်အခမ်းအနားတုတ်ကို ရှေးအခါက သိုင်းဟုခေါ် ဆိုကြကြောင်းသိသာလေသည်။

ယခုမျက်မှောက်ခေတ်၌ပင် ဘာသာရေး၊သာသနာရေး၊ မင်းခမ်းမင်းနားများတွင်'သိုင်း'၊'ကျိုင်း'ဟူသော အဆောင် အယောင် ပစ္စည်းများကို တွေ့ရှိကြရသည့်အနက် တောက် ပြောင်သည့် အဖိုးတန် ပိုးဖဲစများ ထိပ်၌ ချည်ထားသော မှန်စီရွှေချ တုတ်ကို 'သိုင်း'ဟုခေါ်ဝေါ်ကြသည်ဟု သိရှိရ လေသည်။

သိုင်းကိုင်သည် တုတ်ကိုင်နည်း၊ အသုံးပြုနည်း ပညာများ ကို ကျွမ်းကျင်သူ ဖြစ်ကြရသည်။ အရှင်သခင်အတွက် ပေါ် ပေါက်လာသော ရန်ကို ထိုသိုင်း (တုတ်)'နှင့် ကောင်းစွာ အကာအကွယ် ပေးနိုင်သူလည်း ဖြစ်ကြရသည်။ ထိုသည်ကို အစွဲပြု၍ သိုင်း (တုတ်)ကိုင်နည်း အသုံးပြုနည်းများ ကျွမ်း ကျင်စွာ တတ်မြောက်သူကို သိုင်းကိုင်ဟူ၍ငင်း၊ သိုင်းသမား ဟူ၍ငင်း၊ သိုင်းတတ်သည် ဟူ၍ငင်း ပြောရိုးပြုကြသည်။

ထိုကဲ့သို့ ရန်ကို ကာကွယ်ရှင်းလင်းခြင်းအတွက် အသုံးပြု သည့်တုတ်ကို သိုင်းဟုခေါ် ဆိုသုံးနှုန်းကြသည်ကို အကြောင်း ပြု၍ –

ဓားဖြင့် ရန်ကို ကာကွယ်ရှင်းလင်းခြင်း အတတ်ကို ဓား သိုင်း၊ လှံဖြင့် ရန်ကို ကာကွယ်ရှင်းလင်းခြင်း အတတ်ကို လှံသိုင်း၊ လက်ဖြင့် ရန်ကို ကာကွယ်ရှင်းလင်းခြင်း အတတ် ကို လက်သိုင်းဟု အစဉ်အဆက် ခေါ်ဝေါ်လာကြခြင်း ဖြစ်သည်ဟု သိရှိရ၏။

ဆရာ ဂျပ်ဆင်၏ မြန်မာ-အင်္ဂလိပ် အဘိဓာန်၌ –

၁။ သိုင်းကို မင်းသုံးနန်းသုံး အဆောင်အယောင် တုတ် ဟု အဓိပ္ပာယ် ပေးထားပြီး။ ၂။ သိုင်းက၊ သိုင်းကစား၊ သိုင်းကွက်၊ သိုင်းတက်၊ သိုင်းရိုက်ကို ရန်ကို ရှင်းလင်းခြင်း၊ ရန်ကို ခုခံကာကွယ် တိုက်ခိုက်ခြင်း အတတ်ပညာနှင့်ဆိုင် သော လှုပ်ရှားမှုများဟု အဓိပ္ပာယ်ပေးထားပေသည်။

မြန်မာ့ ရာဇဝင်သမိုင်း ရှည်လျား ကြာမြင့်သည်နှင့်အညီ မြန်မာ့သိုင်းပညာသမိုင်းသည်လည်း ရှည်လျားကျယ်ပြန့် ပေ လိမ့်မည်။ ရှေးမင်းအဆက်ဆက် တခေတ်ပြီးတခေတ် လက် ဆင့်ကမ်း ဆင်းသက်လာသော အဖိုးတန် မြန်မာသိုင်းပညာ များကို ယခုအချိန်၌ တနေရာတည်းတွင် တပေါင်းတည်း တစုတည်း မတွေ့နိုင်ကြသော်လည်း ယင်းပညာကောင်း၊ ပညာမှန်များမှ ပေါက်ဖွား ပျံ့နှံ့ကြီးထွားနေသော အနွယ် အပွား သိုင်းပညာများကို ပြည်ထောင်စု မြန်မာနိုင်ငံ အနှံ့ အပြားတွင် တွေ့ရှိနိုင်ပေသည်။

ထိုကဲ့သို့ ပြည်ထောင်စု နေရာအနှံ့အပြား၌ ကြီးထွားရင့် သန်လျက်ရှိသော သိုင်းပညာများသည် အောက်ပါအချက် အချာ ပင်မသိုင်းပညာ ကြောရိုးကြီး သုံးခုမှ ဆင်းသက်လာ ကြခြင်း ဖြစ်သည်။

၁။ အင်းသိုင်း။ မြန်မာ မင်းနေပြည်တော် အင်းဝ ဖက်မှ ဆင်းသက်လာသော ပညာအနွယ်အပွား။

၂။ ကမ္ဗောဇသိုင်း။ ရှမ်းပြည်ဖက်မှ ဆင်းသက်လာ သော ပညာအနွယ်အပွား။

၃။ ရာမညသိုင်း။ အောက်မြန်မာပြည် မွန်မင်းဆက်မှ ဆင်းသက်လာသော ပညာ အနွယ်အပွား။

အထက်ပါ သိုင်းပညာကြီး သုံးရပ်မှ ဆင်းသက်လာ သော ပညာများသည် နှစ်ပေါင်းများစွာ ကြာရှိလာပြီ ဖြစ် သော ယခုအခါတွင် အလွန်ခိုင်ခံ့သော 'ပိုးပိုက်ကွန်' ကဲ့သို့ ပညာတခုနှင့်တခု ရောယှက်တိုးဝင်နေကြပြီ ဖြစ်လေသည်။ ပညာတခုအပေါ် တခု လိမ်ယှက်ရောထွေးကာ အပြန်အလှန် အမှီသဟဲပြုပြီးလျှင် အကျိုးပြုနေကြသဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံရှိ သိုင်းပညာ အဆင့်အတန်းသည် အလွန် ခိုင်ခံ့ကောင်းမွန်သည့် အဆင့်အတန်းတွင် ရှိနေပြီဖြစ် ပေသည်။

**တရုပ် သိုင်းပညာ။** ။တရုပ်နိုင်ငံသည် အရှေ့တိုင်း သိုင်းပညာ၏ မိခင်ကြီးနှင့်တူသည်။ ကမ္ဘာက လူသိများ သော ဂျပန်သိုင်းပညာများသည် တရုပ်နိုင်ငံမှ ဆင်းသက် ပေါက်ဖွား ကူးပြောင်းသွားသော ပညာများ ဖြစ်သည်ဟု အထောက်အထားများက ဆိုပေသည်။

တရုပ်ပြည်ဟောင်းအစိုးရသည် သိုင်းပညာနှင့် သိုင်းပညာ ရှင်များကို လျစ်လျူရှုပြီး ဥပေက္ခာပြုထားခဲ့သဖြင့် တိုးတက် သင့်သလောက် မတိုးတက်ခဲ့ပေ။ တရုပ်ပြည်သစ် အစိုးရ တက်လာမှသာ အစိုးရ၏ အားပေးအားမြှောက် ပြုမှုများ ကြောင့် တရှိန်ထိုး ပြန်လည်တိုးတက်လာ၏။ နှစ်စဉ် နိုင်ငံ လုံးဆိုင်ရာ ပြပွဲများနှင့် ပြိုင်ပွဲများ ပြုလုပ်ပေးမှုများကြောင့် အဆင့်အတန်းလည်း မြင့်တက်လာသည်။ လိုက်စားသူများ လည်း တနှစ်ထက်တနှစ် ပိုမိုများပြားလာသည်။

အနောက်တိုင်း ကျန်းမာရေး လေ့ကျင့်ခန်း နေရာတွင် တရုပ်သိုင်း လေ့ကျင့်ခန်းများကို အစားထိုးထည့်သွင်းကာ ပြည်သူတို့၏ ကျန်းမာရေးအဆင့်ကို သိုင်းပညာများဖြင့် မြှင့်တင်ပေး၏။ အကြောသေရောဂါ၊ နာတာရှည်ရောဂါ များကို ထိုက်ကြည့်ချင်း ခေါ် သိုင်းနည်းများနှင့် ကုသပေး နိုင်သဖြင့် လူကြီးလူငယ် ကျား မ မရွေး တောရော်မြို့ပါ မကျန် သင်ကြားလေ့ကျင့်ရန် အားသန်နေကြပေသည်။

တရုပ်သိုင်းတွင် (၁) အလှတ်သိုင်း ပညာနှင့် (၂) လက်နက်စွဲကိုင်သော သိုင်းပညာ ဟု ခွဲခြားထား၏။

အလှတ်သိုင်းပညာ၌ ဆန်ချင်း၊ ထိုက်ကြည့်ချင်း စသည် ပညာပိုင်းများကို ယခုခေတ်လူများ ပိုမို စိတ်ဝင်စားကြ ပေသည်။

ဆန်ချင်းခေါ် အလှတ်သိုင်းပညာတွင် ရှောက်လင်၊ လျူ ဟိုမိကြို၊ ဆာ၊ ဝူး၊ ဖောက်၊ ဟုန် စသော သိုင်းကစားနည်း များ ပါဝင်သည်။

ယခုအခါ၌ အားကစားပညာကို သင်ကြားပို့ချပေးသော

ကျောင်းများနှင့် တက္ကသိုလ်အားကစားဌာနများတွင် မုချ သင်ကြားရမည့် ဘာသာရပ်တခုအဖြစ် သတ်မှတ်ပေးထား ပေသည်။

တရုပ်နိုင်ငံတွင် နိုင်ငံလုံးဆိုင်ရာ သိုင်းပြိုင်ပွဲများတွင် ဆု ရရှိသူများအား နိုင်ငံခြားများသို့ အတွေ့ကြုံသစ်များ၊ အ မြင်သစ်များနှင့် ပညာဗဟုသုတများ ရရန် ပို့ပေးလေသည်။ ၁၉၆၁ ခုနှစ် ပြည်ထောင်စု မြန်မာနိုင်ငံတော်သို့ပင် လွတ် လပ်ရေး အထိမ်းအမှတ် ပွဲတော်အမီ တရုပ်မိတ်ဆက်သိုင်း အဖွဲ့ကို စေလွှတ်ဘူးလေသည်။ ပညာသည်ကြီးများကို အား ပေးနေသည့် တချိန်တည်းမှာပင် ပညာရှင်သစ်လွင်များကို ဤသို့ ပြုစုပျိုးထောင်ပေးလျက်ရှိ၏။

တရုပ် သိုင်းပညာသည် အမျိုးသား ကာကွယ်ရေးတွင် အရေးကြီးသော အခန်းမှ ပါဝင်ခဲ့ရုံမက ပြည်သူ့ကျန်းမာ ရေးကို အားပေး မြှင့်တင်ရာ၌လည်း ကြီးစွာသော အခန်း မှ ပါဝင်ခဲ့သဖြင့် အစွမ်းကုန် လိုက်စားပြုစုပျိုးထောင်လျက် ရှိကြပေသည်။

**ဂျပန် သိုင်းပညာ။** ။ဂျပန်နိုင်ငံသည် တရုပ်နိုင်ငံနှင့် စာလျှင် သိုင်းပညာသက်တမ်း နောက်ကျသော်လည်း ယင်း တို့၏ သိုင်းပညာများကို ကမ္ဘာနှင့်အဝှန်း လူသိများလာ အောင် ထင်ရှားလာအောင် ကြိုးပမ်းမှု ဇွဲဝီရိယလုံ့လစိုက်ရာ တွင် အလွန် ချီးကျူးဖွယ်ဖြစ်လေသည်။

ဂျပန်နိုင်ငံ၌ လက်ရှိ ထင်ရှားသော သိုင်းပညာများမှာ —

၁။ ဂျူဒို - လက်သိုင်းဗန်တို မူသစ်အတတ်၊

၂။ အိုင်ကီဒို - လက်သိုင်းဗန်တို မူသစ်မူကွဲအတတ်၊

၃။ ကရတေ-လက်သိုင်း(မြန်မာလက်ဝှေ့နှင့်ဆင်သည်။)

၄။ ဂျူးဂျစ်ဆု - လက်သိုင်းဗန်တို မူဟောင်းအတတ်၊

၅။ ကင်ဒို - ဓားသိုင်းအတတ်၊

၆။ ဘူဒို - လေးမြှား ဓားလှံအတတ်၊

၇။ ဆုမော - နပမ်းအတတ်တို့ ဖြစ်ကြသည်။

ဂျူဒိုသည် ခေတ်အစားဆုံး ဖြစ်သည်။ သို့ရာတွင် ဂျူဒို အတတ်သည် ရန်ကို ကာကွယ်ခုခံရန်ဖက်ထက် အားကစား ဖက်သို့ ယိမ်းသဖြင့် ရန်ကို ကာကွယ်ခုခံရန် သက်သက် လေ့လာသူများသည် ဂျူဒိုထက် အခြားပညာများကို ပိုမို နှစ်သက် အားထားကြသည်။

**အိန္ဒိယ သိုင်းပညာ။** ။''သိုင်းပညာအစ အိန္ဒိယက'' ဟု အချို့သော သုတေသီတို့က တင်ပြကြသည်။ အိန္ဒိယနိုင်ငံ သည် အခြားအာရှနိုင်ငံများထက် ယဉ်ကျေးမှု ပို၍ ရှေးကျ သဖြင့် ယုတ္တိတန်ပေသည်။ လေးရာစုနှစ်အတွင်း၌ တောင် ပိုင်း အိန္ဒိယနိုင်ငံမှ တဆင့် တရုပ်နိုင်ငံဖက်သို့ ရောက်ရှိသွား သည်ဟု အဆိုပြုကြသည်။ ထိုကြောင့် အိန္ဒိယသည် သိုင်း ပညာ၏ဖခင်ဖြစ်ပြီး တရုပ်ပြည်သည် သိုင်းပညာ၏မိခင်ဟု ပြောစမှတ် ပြုကြဟန်တူသည်။

အိန္ဒိယနိုင်ငံသည် သိုင်းပညာ၏ မူလဖခင်ကြီးဖြစ်သော် လည်း တရုပ်နိုင်ငံ ဂျပန်နိုင်ငံများလောက် အိန္ဒိယနိုင်ငံတွင် သိုင်းပညာ ဖွံ့ဖြိုး တိုးတက်မှုမရှိပေ။ သို့ရာတွင် လက်ငုတ် လက်ရင်း သိုင်းပညာအချို့ကို အိန္ဒိယတိုင်းသားတို့လက်တွင် ကျန်ရှိ လေ့ကျင့်လိုက်စားနေကြသည်ကို တွေ့ရှိရ၏။ ယင်းတို့ အနက် ဗိုင်နေ့၊ အာထာ၊ ဗင်နရက်စ စသော လက်သိုင်း ဗန်တိုပညာများ၊ ဗာဂျမူရှုတီး၊ ပင်ကရတီဗင် စသော ရှေးဟောင်း နပမ်းသတ်ခြင်း အတတ်များသည် ပိုမို ထင်ရှားကြသည်။

**အနောက်တိုင်းသိုင်းပညာ။** ။အနောက်တိုင်းနိုင်ငံများ တွင် လက်သိုင်း တုတ်သိုင်းပညာများထက် ဓားသိုင်းပညာ များကို ပိုမို၍ စံနစ်တကျ လိုက်စား ရှာဖွေစုဆောင်းထား ကြသည်ကို တွေ့ရှိရသည်။ ဓားသိုင်းပညာကို အင်္ဂလိပ်ဘာ သာ အခေါ်ဖြင့် ဖင်းစင်းဟု ခေါ်သည်။ ဓားသိုင်းသမားကို ဖင်းစားဟု ခေါ်သည်။ဖင်းစားတယောက်သည် အောက်ပါ ဓား သုံးမျိုးစလုံးကို ကိုင်တတ် ခုတ်တတ် ကစားတတ် ကာကွယ်တတ် တိုက်ခိုက် ခုခံတတ်ရသည်။ ယင်းတို့မှာ —

၁။ ဖွိုင်—ထိုးဓားသက်သက်ဓား၊

၂။ အပီး—ထိုးလည်းထိုး ခုတ်လည်းခုတ်နိုင်သောဓား၊

၃။ ဆယ်ဗာ - အခုတ်သက်သက် ဓား ဟူ၍ ဖြစ် ကြသည်။

၁၉၀၈ ခုနှစ်တွင် အက်သင်းမြို့၌ ကျင်းပ ပြုလုပ်သော အိုလင်းပစ် ပြိုင်ပွဲမှစ၍ ပဌမဦးဆုံး ကမ္ဘာ့ဓားသိုင်း ဗိုလ်လုပွဲ ကြီး ကျင်းပ ပြုလုပ်ပေးခဲ့သည်။ အနောက်တိုင်း ဓားသိုင်း အတတ်သည် ယခုအခါ၌ အိုလင်းပစ်ပြိုင်ပွဲများ၌ ကျော် ကြားသော အားကစားပညာ တရပ်အနေနှင့် ကမ္ဘာက အသိအမှတ်ပြုခြင်းကို ခံရ၏။ ယင်းကဲ့သို့ လေးနှစ်တကြိမ် ကျင်းပပြုလုပ်သော အိုလင်းပစ် ဓားသိုင်းဗိုလ်လုပွဲအတွက် တိုင်းပြည်အလိုက် အစွမ်းကုန် ကြိုးစားလေ့ကျင့် ကြိုးပမ်း ကြခြင်းဖြင့် အနောက်နိုင်ငံများတွင် ဓားသိုင်းပညာ တည် ကဲ့ တိုးတက်လျက် ရှိပေသည်။

**အခြားနိုင်ငံများရှိ သိုင်းပညာများ။** ။ရုရှနိုင်ငံတွင် ဂျူဒိုဆံဆံ လက်သိုင်းပညာကို ဆမ်ဗိုဟု ခေါ်သည်။ အင်္ကျီဝတ်၍ လုံးသတ်ရသော ရှေးဟောင်းနပမ်းအတတ်ကို ဗေယက်ဟု ခေါ်သည်။

ပြင်သစ်နိုင်ငံတွင် ခြေနှင့်တိုက်ခိုက်ခုခံရသော မူဟောင်း သိုင်းပညာတခု ထူးထူးခြားခြား ရှိသည်ကို တွေ့ရသည်။ ယင်းကို ဆာဗတ်တီဟု ခေါ်သည်။

အာဖရိကတိုက် အင်ဂိုလာပြည်နယ်၌ရင်း၊ တောင်အမေ ရိကတိုက် ဗရာဇီးနိုင်ငံတဝိုက်၌ရင်း ကက်ပိုအဲရာဂျင် ခေါ် ခြေအားကိုး လက်အားကိုး ရှေးဟောင်း သိုင်းပညာတခုကို သုတေသီတို့ တွေ့ကြရသည်။ တောကောင်ကဲ့သို့ အလွန်

လျှင်မြန် ဖြတ်လတ်စွာ သတ်ပုတ်တိုက်ခိုက်နိုင်သည့် ပညာ ဟု ဆိုကြသည်။

**လူသားနှင့် သိုင်းပညာ။** ။သိုင်းပညာသည် ရန်ကို ကာကွယ် ခုခံ တိုက်ခိုက်သည့် ရှေးဟောင်း အတတ်ပညာ တခု ဖြစ်သော်ငြားလည်း ယခုအချိန်အထိ ကမ္ဘာအဝှန်း တွင် သက်တမ်းရှည်လျား ရှင်သန်နေသည်မှာ ကမ္ဘာ့လူသား တို့အား ကာယသတ္တိ၊ သူရသတ္တိနှင့် အခြား အရည်အချင်း များကို ဖြည့်စွမ်း ပေးနိုင်သောကြောင့် ဖြစ်သည်ဟု ဆိုရ ပေမည်။ ဦးချစ်သန်း

**သစ်။** ။ကျွန်းသစ် — ရှု။

**သစ်ကတိုး။** ။သစ်ကတိုးပင်များကို မြန်မာနိုင်ငံ၌ ချင်း တွင်းမြစ် အထက်ပိုင်း၊ ကသာ၊ မေမြို့၊ အင်းစိန်၊ သထုံ၊ သောင်ရင်းနှင့် ရခိုင်တိုင်းတို့တွင် တွေ့ကြရသည်။ ပူအိုက် စိုစွတ်သော ဒေသပေါက် ရွက်ကြွေပင်မျိုးဖြစ်ရာ အိန္ဒိယ နိုင်ငံ၊ မလ္လာယုကျွန်းဆွယ် စသည်တို့၌လည်း ပေါက်ရောက် လေသည်။

ထိုအပင်မျိုးတို့သည် မီလီယေစီအီး မျိုးရင်းတွင် ပါဝင် ၍ ရုက္ခဗေဒအမည်ဖြင့် ဆက်ဒရီလာတူးနားဟု ခေါ်သည်။ ယင်းတို့သည် ပေ ၈၀ မှ ၁၀၀ အထိ မြင့်နိုင်၍ လုံးပတ် ခြောက်ပေမှ ရှစ်ပေအထိ ရှိနိုင်သည်။ ပင်စည် ဖြောင့်မတ် ၍ အကိုင်း အခက် အရွက်တို့၏ အနေအထား လှပသဖြင့် တင့်တယ်ခန့်ညား၍ အရိပ်အာဝါသ ကောင်းသော သစ်ပင် ကြီးမျိုး ဖြစ်လေသည်။

သစ်ကတိုးပင်၏ အရွက်များသည် တပေမှ နှစ်ပေအထိ ရှည်သော ငှက်မွေးပုံ ရွက်ပေါင်း ဖြစ်သည်။ ရွက်လက်တခု တွင် ရွက်မြွာလေးစုံမှ ၁၅ စုံအထိ ပါရှိတတ်၍ တခါတရံ ထိပ်ရွက်မြွာ ပါရှိလေသည်။ အရွက်နုကလေးများသည် ထွက်လာစတွင် နီရဲနေရာမှ တဖြည်းဖြည်း အရောင်ပြောင်း လာကာ အရွက်များ ရင့်လာသောအခါ တောက်ပသော အစိမ်းရောင် ဖြစ်လာလေသည်။ သစ်ကတိုးပင်များသည် ဒီဇင်ဘာလမှ မတ်လ အလယ်လောက်အထိ အရွက်များ ကြွေလေသည်။

မတ်လနှင့် မေလအတွင်း အပွင့်များ ပွင့်သည်။ အပွင့် များသည် ½ လက်မခန့် ရှည်၍ အဖြူရောင် ဖြစ်ပြီးလျှင် အနံ့သင်းသင်းရှိသည်။ အကိုင်းဖျား အခက်ဖျားမှ အပွင့် များထွက်၍ ပွင့်သည်။

မေလနှင့် ဇူလိုင်လအတွင်း အသီးများ သီးသည်။အသီး သည် တလက်မနီးပါးရှိ၍ အလယ်အူတိုင်မှ အကန့် ငါးကန့် ဖြာ ထွက်သည်။ အသီးရင့်၍ မှည့် လာပြီးနောက်တွင် ခြောက်သည့်အခါ အက်ကွဲထွက်သော အသီးမျိုးဖြစ်သည်။ အသီးကွဲအက်၍ အစေ့များ ထွက်ကျသော်လည်း အကန့် များသည် အသီးတွင် နေရာဟောင်းအတိုင်း ကျန်ရစ်သည်။ အစေ့ထွက်ကျပြီးသော အသီးများသည်လည်း အပင်တွင် ထိုအတိုင်း နေကာ အရွက်များ ကြွေသည့် ကာလတိုင် အောင် အသီးဟောင်းများ မကြွေသေးပဲ ရှိနေသည်ကို တွေ့ရတတ်လေသည်။

အစေ့တို့သည် အညိုနုရောင်ရှိ၍ ခပ်ပြားပြား ဖြစ်ပြီး လျှင် ပေါ့ပါးသည်။ အစေ့များ၏ အဖျားစွန်း နှစ်ဖက်တွင် တောင်ပံသဖွယ်ဖြစ်သော ဘေးသားရှိလေသည်။

သစ်ကတိုးအခေါက်သည် အပင်နုစဉ်အခါတွင် ချော မွတ်သော်လည်း ရင့်လာသည့်အခါ အလျားလိုက်နှင့် ထောင် လိုက် ပပ်ကြားအက်များ ပေါ်လာရာ အကြေးခွံများ ထ နေသည်နှင့် တူလေသည်။ ထိုအခေါက်များသည် အားဆေး များ ဖော်စပ်ရာ၌ ဆေးဖက်ဝင်သည်ဟု ဆိုကြသည်။ထိုပြင် ဖန်သော သတ္တိရှိသဖြင့် ချုပ်ဆေးများ၌လည်း ယင်းတို့ကို ထည့်သွင်း အသုံးပြုကြလေသည်။

အပွင့်များမှလည်း အဝါရောင် ဆိုးဆေးတမျိုးကို ရနိုင် သည်။ သို့သော် သစ်ကတိုးပင်၏ အဖိုးအတန်ဆုံး အစိတ် အပိုင်းမှာ သစ်သားဖြစ်လေသည်။

သစ်ကတိုးသားသည် နီကြန့်ကြန့် အရောင်ရှိ၍ မွှေးကြိုင် သော အနံ့ရှိသည်။ ထိုကြောင့်ပင် သစ်ကတိုးဟူသော အ မည် တွင်ဟန်တူပေသည်။ ကမ္ဘာ့ဈေးကွက်တွင် မြန်မာ သစ်ကတိုးကို 'ဗားမားဆီဒါ'ဟူသော အမည်ဖြင့် အရောင်း အဝယ် ပြုကြသည်။ အိန္ဒိယနှင့် ပါကစ္စတန်တွင်မူ 'တွန်း' ဟု ခေါ်သည်။ သစ်ကတိုးသားသည် ခြမစားလွယ်ဟု ဆို ကြသည်။ လေသလပ်ခံနည်းဖြင့် အသားသေပြီးသော သစ်ကတိုးသား ကုဗ တပေသည် ပေါင် ၃၀ မျှသာ အချိန် စီးသည်။ ထိုသစ်မျိုးသည် ခွဲဖြတ်စိတ်ဖြာရန် လွယ်ကူသော် လည်း အပူအအေးကို လိုက်၍ ရှုံ့တွဖောင်းပွနိုင်လေသည်။ ထိုကြောင့် အိမ်ထောင် ပရိဘောဂပစ္စည်းများ ပြုလုပ်ရာ၌ အသုံးပြုကြသော်လည်း အတွင်းကျသော နေရာများ၌သာ အသုံးများလေသည်။

သစ်ကတိုးသားကို သေတ္တာများ၊ လှေများ ပြုလုပ်ရန် လည်း သုံးကြသည်။ အတော်အတန် ပေါ့ပါးသော သစ်မျိုး ဖြစ်၍ လောင်းလှေများကိုလည်း ထိုအသားဖြင့် ပြုလုပ်ကြ လေသည်။

သစ်ကတိုးသည် တောင်တမာ၊ ရေတမာတို့နှင့်လည်း အပင်ချင်း ဆင်ဆင်တူသည်။ သို့သော် တောင်တမာနှင့် ရေတမာပင်တို့သည် မျိုးစိတ်ကွဲများဖြစ်၍ ယင်းတို့၏အရွက် များသည် သစ်ကတိုးအရွက်များထက် ပို၍ ရှည်သည်။ အပွင့်ရောင်ချင်းလည်းမတူချေ။ သစ်သားသည်လည်း အနီ ရောင်ဖျော့၍ သစ်ကတိုးသားလောက်လည်းအသုံးမဝင်ချေ။

သစ်ကတိုးသည် အစေ့ပျိုး၍ စိုက်နိုင်သော အပင်မျိုး ဖြစ်သည်။ သို့သော် အစေ့လတ်ဆတ်မှ ရှင်သန်လွယ်သည်။ အကြီးမြန်သော်လည်း မြေသြဇာကောင်းနှင့် ရေများစွာ လိုသည်။ လမ်းဘေးတလျှောက်တွင် အရိပ်ရရန် စိုက်ပျိုး သင့်သော အပင်မျိုးဖြစ်လေသည်။

**သစ်ကုလားအုပ်။** ။သက်ရှိ နို့တိုက် သတ္တဝါများထဲတွင် သစ်ကုလားအုပ်သည် အမြင့်ဆုံးဖြစ်၍ မြေကြီးမှ ဦးခေါင်း အထိ ၁၆ ပေမှ ၁၈ ပေကျော်ထိ မြင့်သည်။ ဤမျှလောက် မြင့်ခြင်းမှာ ကိုယ်လုံးကိုယ်ထည် ကြီးမားသောကြောင့် မဟုတ်ပဲ ယင်း၏ အလွန်အမင်း ရှည်လျား သေးသွယ်သော ခြေထောက်များနှင့် အလွန့်အလွန် ရှည်လျားသော လည်တံ တို့ကြောင့်ဖြစ်သည်။ သစ်ကုလားအုပ်၏ ကိုယ်ထည်မှာ သာမန် မြင်း၏ ကိုယ်ထည်လောက်သာရှိသည်။ သို့သော်လည်း ခြေလက် ရှည်လျားလွန်းသောကြောင့် ရေသောက် သွားအခါ၌ဖြစ်စေ၊ အပင်ငယ်ကလေးများကို စားသည့် အခါ၌ဖြစ်စေ ရှေ့လက်နှစ်ဖက်ကို ခပ်ကျဲကျဲ ကားထားပြီး မှသာ စားသောက်နိုင်သည်။

သစ်ကုလားအုပ်ဟူသော အမည်ဖြင့် ခေါ်ရခြင်းမှာ ထိုသတ္တဝါသည် ပုံပန်းသဏ္ဌာန် အားဖြင့် ကုလားအုပ်နှင့် ခပ်ဆင်ဆင်တူပြီးလျှင်အရောင်အဆင်းမှာကျားသစ်ကဲ့သို့ အပြောက်အပြောက်များ ရှိသောကြောင့် သစ်ကုလားအုပ် ဟု ခေါ်ဝေါ်လာကြသည်။ သစ်ကုလားအုပ်သည် ဂျီရပ်ဖိဒီး မျိုးရင်းတွင် ပါဝင်၍ ပါဏဗေဒအလို အားဖြင့် ဂျီရပ်ဖာ ကယ်မယ်လို ပါဒါလစ်ဟု ခေါ်သည်။

သစ်ကုလားအုပ်များ၏ မူလ နေထိုင်ရာဒေသမှာ အိန္ဒိယ သမုဒ္ဒရာမှသည် အတ္တလန္တိတ် သမုဒ္ဒရာ အထိ ကျယ်ပြန့်သော အာဖရိက တိုက်တတိုက်လုံး ဖြစ်သော်လည်း ယခုအခါ၌မူ ဆဟာရား သဲကန္တာရနှင့် ဇမ်ဗီဇီမြစ် အကြားရှိ အာဖရိက တိုက် အရှေ့ပိုင်း နှင့် အလယ်ပိုင်း လွင်ပြင်များ၌သာ တွေ့ရတော့သည်။ သစ်ကုလားအုပ်သည် မြက်ပင်များ အလွန် ရှားပါးသော အဆိုပါ ခြောက်သွေ့သောဒေသများ၌ ပေါက်ဖွားသဖြင့် ယင်းတို့၏ အစာမှာ သစ်ရွက်များသာ ဖြစ်ချေသည်။ သို့သော် ထိုဒေသများတွင် ပေါက်ရောက်သော သစ်ပင်များ၏ အကိုင်းများမှာ မြေကြီးမှ အလွန်မြင့်သော နေရာများ၌သာ ရှိကြသည်။ ထိုအကိုင်းများမှ အညွန့်အတက် အရွက်များကို မှီအောင် ကိုက်စားနိုင်ရန် သစ်ကုလားအုပ်တွင် အဆမတန် ရှည်လျားသော လည်တံနှင့် ခြေထောက်များ ရှိရခြင်း ဖြစ်ပေသည်။ ထိုအညွန့် အတက် အရွက်များကို မိမိရရ ကိုက်ဖဲ့နိုင်ရန် အတွက်လည်း အပေါ်နှုတ်ခမ်းမှာ ရှည်ထွက်လျက် ရှိပြီးလျှင် လျှာမှာလည်း တတောင်ခန့် ရှည်လျားသည်။ ဤသည်တို့ကား သဘာဝ၏ ပြုပြင်မှုပင်တည်း။ သစ်ကုလားအုပ်၏ လည်တံမှာ အလွန်ရှည်လျားသော်လည်း လည်ချောင်းရိုးအဆက်မှာ အခြား တိရစ္ဆာန်များကဲ့သို့ ခုနစ်ဆက်သာ ရှိသည်။ ပုံစံအားဖြင့် ရေမြင်းသည် အလွန်တုပ်ခိုင်သော သတ္တဝါဖြစ်၍ လည်ပင်းမှာ အလွန်တိုသော်လည်း အရိုးဆက် ခုနစ်ဆက်ပင်ရှိသည်။ ဤသို့ လည်တံရှည်သလောက် အရိုးဆက် မများသောကြောင့်လည်း သစ်ကုလားအုပ်သည် လည်တံကို ငန်းများကဲ့သို့



သစ်ကုလားအုပ်၏အရပ်သည် မြေကြီးမှ ဦးခေါင်းအထိ ၁၆ ပေမှ ၁၈ ပေ ကျော် အထိ မြင့်သည်။

ပျော့ပျော့ ပျောင်းပျောင်း လှည့်ပတ်ချင်သလို မလှည့်ပတ်နိုင်ပဲ တောင့်တောင့်ခိုင်ခိုင်နှင့်သာ ရှိနေလေသည်။

သစ်ကုလားအုပ်သည် ထနောင်းပင်မျိုး၊ နန်းလုံးကြိုင်ပင်မျိုးကဲ့သို့ ဆူးရှိသော အပင်များမှ အရွက်များကို လိုက်လံ စားသောက်လေ့ရှိ၏။ ထိုအရွက်များကို လှမ်းစားနေသည့် အခါမျိုး၌ ယင်း၏ လည်တံရှည်ကြီးသည် သစ်ကိုင်းကဲ့သို့ရှင်း၊ အဝါနှင့် အညိုပြောက်များရှိသည့် ယင်း၏ ကိုယ်လုံးမှာ သစ်ပင်အုပ်များပေါ်သို့ နေပြောက်ထိုးနေဘိသကဲ့သို့ရှင်း တကိုယ်လုံးမှာ သစ်ပင်နှင့် ရှုတ်တရက် ခွဲမရအောင်ရှိနေသဖြင့် ရန်သူများ မြင်နိုင်ရန် ခဲယဉ်းလေသည်။ ယင်းသို့ သစ်ရွက်များကို အေးအေးသာသာ လှမ်း၍ စားနေစဉ် သစ်ကုလားအုပ်၏ ဦးခေါင်းသည် ရန်သူကို စောင့်ကြည့်နိုင်ရန် မျှော်စင်သဖွယ် ရှိနေလေသည်။ ထို့ကြောင့်လည်း ရန်သူ၏ အရိပ်အယောင်ကို ရိပ်ခနဲမြင်လိုက်လျှင် ဖြစ်စေ၊ ရန်သူ၏ အသံကို ချွတ်ခနဲ ကြားလိုက်လျှင် ဖြစ်စေ ခြေကုန်သုတ်၍ ပြေးတတ်လေသည်။

သစ်ကုလားအုပ် မျိုးစိတ်တခုတွင် အထီးရော အမတွင်ပါ ဦးချိုများရှိတတ်သော်လည်း များသောအားဖြင့်အထီးများ၌သာ ဦးချိုများရှိကြသည်။ ဦးချိုဟု ဆိုရသော်လည်း ကျွဲနွား ဦးချိုတို့ကဲ့သို့ အလွန် မာကျောသည် မဟုတ်ပဲ ချိုစောင်း၌ ဦးချိုကဲ့သို့ချွန်ထွက်နေသည့် ဦးချိုယောင်ယောင်မျှသာဖြစ်၍ အရေပြားဖြင့်လည်း ဖုံးအုပ်လျက် ရှိပြီးလျှင် ထိပ်တွင် အမွေးကြမ်းများ အစုလိုက် ဖုံးလျက်ရှိသည်။ ထိုဦးချိုယောင်ယောင် နှစ်ခုကြားရှေ့တွင်လည်း အောက်ခံအရိုးသည် ကုန်းတန်းကလေးသဖွယ် အလယ်တွင် ခပ်ခုံးခုံး ရှိနေသောကြောင့် ယင်းကိုလည်း တတိယ ဦးချိုဟု ခေါ်လိုက ခေါ်နိုင်သေးသည်။ သစ်ကုလားအုပ်၏ ဦးခေါင်းနေပုံမှာ သမင် ဒရယ်တို့၏ ဦးခေါင်းပုံသဏ္ဌာန်ကဲ့သို့ ရှိပြီးလျှင် မျက်လုံးများလည်း သမင် ဒရယ် မျက်လုံးများနှင့် များးစွာတူလေသည်။ သစ်ကုလားအုပ်၏ ခြေလက်များတွင် ခွာများရှိ၍ အလယ်၌ နှစ်ခြမ်းကွဲလျက်ရှိသည်။ ထို့ပြင် နွား၊ သိုး၊ ဆိတ်၊ သမင်၊ ဒရယ် တို့ကဲ့သို့ စားမြုံ့ပြန်တတ်သော တိရစ္ဆာန်မျိုးလည်း ဖြစ်လေသည်။

သစ်ကုလားအုပ်၏ သွားလာ ရွေ့ရှားမှုဟန်သည် ကိုယ်ထည် တည်ဆောက်ထားပုံကဲ့သို့ ထူးဆန်းပေသည်။ ယင်းသည် ဖြည်းဖြည်းသက်သာ ပြေး၍မရပဲ လျင်မြန်သောနှုန်းဖြင့် ကဆုန်ပေါက်၍ ပြေးတတ်သည်။ အကယ်၍ မပြေးပဲ လမ်းလျှောက်သွားပါက လည်တိုင်ကိုမော့ကာ ဣန္ဒြေရရနှင့် ဖြေးဖြေးသက်သာ လျှောက်လေ့ရှိသည်။ သစ်ကုလားအုပ်၏ အသားသည် အလွန်ကောင်း၍ လူများစျေးကြီးပေးဝယ်ကြသည်။ အရေခွံကိုကား သားရေအဖြစ်ဖြင့် အသုံးပြုကြသည်။

သစ်ကုလားအုပ်၏ အသံကို ကြားရခဲ သောကြောင့် အသံမထွက်ဟု ထင်မြင်ယူဆကြသော်လည်း တခါတရံမိခင် သစ်ကုလားအုပ်မက သားငယ်ကိုခေါ်သည့် တိုးတိုးအော်သံကို ကြားရဘူးသည်ဟု ဆိုသည်။ အသံမထွက်ဟု ဆိုရသလောက် အကြားအမြင်နှင့် အနံ့ဖက်တွင်ကား ထူးထူးခြားခြား ကောင်းပေသည်။

ပကတိအားဖြင့် သစ်ကုလားအုပ်သည် သဘောကောင်း၍ ငြိမ်သက်အေးချမ်းသော တိရစ္ဆာန်ဖြစ်ပြီးလျှင် မိမိကိုယ်ကို မိမိ ခုခံကာကွယ်သည်မှအပ ရန်မမူတတ်ချေ။ သို့သော် အသက်ဘေးနှင့် အရေးကြုံလာသည့်အခါတွင်ကား သစ်ကုလားအုပ်မသည် သားငယ်များအတွက် ခြသေ့်ကိုပင် မိမိ၏ သန်မာသော နောက်ခြေများဖြင့် ကန်ကျောက်၍ သတ်နိုင်လေသည်။

**သစ်ကပ်မှော်။** ။သစ်ကပ်မှော်သည် ပင်စည်၊ အမြစ်၊ အရွက်ဟူ၍မရှိသော အပင်မျိုးဖြစ်သည်။ ဖြူ၊ နီ၊ ညို၊ ပြာ၊ စိမ်း စသည်ဖြင့် အရောင်အမျိုးမျိုး၊ ပုံပန်းသဏ္ဌာန်အမျိုးမျိုးတို့ဖြင့် သစ်ကပ်မှော်ပင် မျိုးပေါင်း မြောက်မြားစွာရှိရာ အမျိုးပေါင်း ၄,၀၀၀ ခန့်ကိုမူ အသိအမှတ်ပြုထားပြီး ဖြစ်လေသည်။

သစ်ကပ်မှော် ဟူသော မြန်မာအမည်ဖြင့် ခေါ်ဝေါ်ကြသော်လည်း ယင်းအပင်မျိုးတို့သည် သစ်ပင်နှင့် သစ်ငုတ်တိုများတွင်သာမက ပင်လယ်ကမ်းစပ်သဲခုံသောင်ပြင်၊ ကျောက်တုံး ကျောက်ဆောင်နှင့် မြေရိုင်းဖုန်းဆိုးများတွင်ပါ မကျန် ပေါက်ရောက်သည်ကို တွေ့ရှိကြရသည်။ ယင်းတို့သည်ရေမြေဒေသ မရွေးလှပဲ အေးလွန်းသော အရပ်၊ ပူလွန်းသော အရပ်များ၌ပင် ပေါက်ရောက်နိုင်ကြသဖြင့် ကမ္ဘာ့အရပ်ရပ်ဒေသ အနှံ့အပြား၌ သစ်ကပ်မှော် အမျိုးမျိုးတို့ကို တွေ့ရှိကြရလေသည်။

ယင်းတို့သည် နေရာဒေသ မရွေး ပေါက်ရောက်နိုင်ခြင်းမှာ အကြောင်းရှိလေသည်။ ထိုအကြောင်းမှာ သစ်ကပ်မှော်ဟူ၍ ဖြစ်ပေါ်လာသော အပင်ဖွဲ့စည်းပုံ၏ သဘာဝ ဖြစ်ပေသည်။

သစ်ကပ်မှော်သည် အပင်နှစ်မျိုး ဖက်စပ်၍ တပင် ဖြစ်လာသော အပင်မျိုးဖြစ်ရာ ရုက္ခဗေဒအားဖြင့် သဟဇီဝနဟုခေါ်သည်။ သစ်ကပ်မှော်တွင် ဖက်စပ်ပါဝင်သော အပင်နှစ်မျိုးသည် ကျွန်းကိုင်းမှီ ကိုင်းကျွန်းမှီကာ တဦးကိုတဦး အမှီသဟဲ ပြုပြီးလျှင် ရှင်သန်ကြရသည်။ ထိုဖက်စပ် ပါဝင်သော အပင်နှစ်မျိုးကား အယ်လဂျေ ပင်မျိုးနှင့် ဖန်းဂပ်မှိုမျိုးတို့ ဖြစ်လေသည်။

အယ်လဂျေ ပင်မျိုးတို့ကား မြစ် ချောင်း ကမ်းနားနှင့် ပင်လယ် သမုဒ္ဒရာတို့၌ တွေ့ရှိရသော ဆဲတခုတည်း ရှိသည့်



ကျောက်ဘုံးများတွင် စွဲလျက်ရှိသော သစ်ကပ်မှော်များသည် အစုလိုက် အပြုံလိုက် ပေါက်ရောက်ကြသည်။

မှော်ပင်မျိုး ဖြစ်သည်။ သစ်ကပ်မှော်တွင် ဖက်စပ် ပါဝင်သော ဖန်းဂပ်မှိုမျိုးသည် အယ်လဂျေပင်ကို အမှီသဟဲ မပြုရက ကြာရှည်စွာ မရှင်သန်နိုင်ချေ။ ထိုမှိုပင်သည် ကွန်ခြာသဖွယ်ဖြစ်နေသော ယင်း၏အမျှင်များဖြင့် အယ်လဂျေပင်အား ရစ်ပတ်ထားလေသည်။ ယင်းသို့ အပင်နှစ်မျိုး ဖက်စပ်၍ ဖြစ်ပေါ်ရသည့် အခြေခံဖွဲ့စည်းမှု ရှိသောကြောင့် အခြားအပင်များ မပေါက်နိုင်သည့် အရပ်များတွင် သစ်ကပ်မှော်တို့ ပေါက်ရောက်နိုင်ခြင်း ဖြစ်သည်။

သစ်ကပ်မှော်၏ ကိုယ်ထည် တည်ဆောက်ပုံသည် အစတွင် ဆိုခဲ့သည့်အတိုင်း အမြစ်၊ ပင်စည်၊ အရွက် စသည်တို့ မရှိပဲ သဲလတ်ခေါ်သည့် မညီညာသော အလွှာများဖြင့် ပြီးသည်။ အခြားအခြားသော အပင်များသည် နေရောင်ခြည်မှ စွမ်းအားကို ယူ၍ (ကာဗိုဟိုက်ဒရိတ်) အစာချက်လုပ်စေနိုင်သော ကလိုရိုဖီဟု ခေါ်သည့် အစိမ်းရောင်၊ သို့မဟုတ် အဝါရောင် ပစ္စည်း ပါရှိကြရာ ဖန်းဂပ်ပင် တို့တွင် ထိုပစ္စည်းမျိုး မပါရှိပေ။ ထိုကြောင့် အစာရရှိရေးအတွက် အယ်လဂျေပင်ကို ဖန်းဂပ်ပင်က အားထားရသည်။ ယင်းသို့ အယ်လဂျေပင်တို့က အစာပေးသည်ကို တုံ့ပြန်သောအားဖြင့် ဖန်းဂပ်မှိုပင်များက အယ်လဂျေပင်တို့အား နေအပူရှိန်ကြောင့် သွေ့ခြောက်၍ သေမသွားစေရန် ရေနှင့် ဓာတ်သတ္တုတို့ကို စုဆောင်းပေးလေသည်။ ထိုကြောင့် ထိုအပင် နှစ်မျိုးတို့သည် တဦးကိုတဦး ကျေးဇူးပြုကာ ရှင်သန် နေကြရသဖြင့် အစဉ်သဖြင့် ပူးတွဲကာ နှစ်ပင့် တပင်အဖြစ် ပေါက်ရောက်ကြရလေသည်။

သစ်ကပ်မှော်ဟူ၍ စတင်ဖြစ်ပေါ်ပုံမှာ ဖန်းဂပ်မှို၏ မျိုးမှုန်တခုသည် လေဖြင့်လွင့်၍ အယ်လဂျေပင်တို့ ရှိရာသို့ ရောက်ရှိခဲ့ရာမှ ထိုအပင်မျိုးတို့ စတင်မျိုးတည် ပေါက်ပွားပျံ့နှံ့သည်ဟု ဆိုကြသည်။ သစ်ကပ်မှော်တို့သည် မျိုးပျံ့ပွားလွယ်၍ လျင်မြန်စွာလည်း ရှင်သန်လွယ်သည်။ သစ်ကပ်မှော်တပင်ကို သေချာစွာ ငုံ့လာကြည့်ပါက အပေါ်ယံမျက်နှာပြင်တွင် ဖုန်တက်နေသကဲ့သို့ရှိသည်ကို တွေ့ကြရပေလိမ့်မည်။ ယင်းသည်ကား မျိုးမှုန်ကလေးများ ရှိနေကြခြင်းပင် ဖြစ်သည်။ ထိုသေးငယ်၍ ဖုန်မှုန့်ခန့်သာ ရှိသောမျိုးမှုန်ငယ်တခုတွင် ဖန်းဂပ်မှိုမျှင်ဖြင့် ရစ်ပတ်လျက် ရှိသော အယ်လဂျေဆဲ တခုစီ ပါရှိပြီးသား ဖြစ်ပေသည်။ ထိုဖုန်မှုန့်ကလေးများသည် လေဖြင့် လွင့်ပါရာမှ ကျရောက်ရာဒေသ၌ အပင် ပေါက်နိုင်ကြသည်။ ထိုကြောင့် နေရာ ဒေသ မရွေး သစ်ကပ်မှိုမျိုးတို့ကို တွေ့ကြရလေသည်။

သစ်ကပ်မှော်ပင်မျိုးတို့သည် သာလော့ဖီတာမျိုးပေါင်းစုတွင် ပါဝင်သည်။ ၁၈၆၈ ခုနှစ်အထိ ယင်းတို့အား ပွင့်မဲ့အပင်မျိုးတွင် ထည့်သွင်းခဲ့သည်။ သို့သော် ယင်းတို့အား မှိုမျိုးတွင် ထည့်သွင်းခြင်းကပို၍သင့်လျော်သဖြင့် အက်စကိုမိုင်စီးတီးဟူသော မှိုအုပ်စုတွင် ထည့်သွင်းခဲ့ကြရလေသည်။

အမျိုးပေါင်း ၄,၀၀၀ ကျော်မက ရှိသည်ဟု အစတွင် ဆိုခဲ့သည့်အတိုင်း အသွေးအရောင် ပုံပန်းသဏ္ဍာန် အမျိုးမျိုးရှိရာ အခြေခံ သဲလတ်၏ ပုံပန်းကို လိုက်၍ ဤသို့ ခွဲခြားထားသည်။ သစ်ရွက်ပုံသဏ္ဍာန်နှင့် တူသော သစ်ကပ်မှော်တို့ကို ဖိုလီယိုအုပ်စုဟု ခေါ်၍ ယင်းအုပ်စုဝင် တို့ကို ဝင်းခြံတိုင် စသည်တို့၌ ပေါက်ရောက်သည်ကို တွေ့ရသည်။ ခုံးခရုနှင့်သဏ္ဍာန်တူသော သစ်ကပ်မှော်တို့ကို ကရပ်စတေးရှပ် အုပ်စု၌ ထည့်သွင်းကြရ၍ ယင်းတို့ကို ကျောက်တုံး ကျောက်ဆောင်များပေါ်၌ စိမ်းတလှည့်၊ ပြာတလှည့်ဖြင့် ပုံပန်းအမျိုးမျိုးဖော်ကာ ပေါက်ရောက်နေကြသည်ကို တွေ့ကြရသည်။ သေးငယ်သော ရေညှိ၊ သို့မဟုတ် အကိုင်းအခက်ကလေးများ ရှိ၍ ချုံဖုတ်ကလေးများနှင့် တူသော သစ်ကပ်မှော်တို့ကို ဖရုတီကိုအုပ်စု၌ ထည့်သွင်းထားသည်။ ယင်းတို့သည် သစ်ပင်များ၌ရင်း၊ မြေကွက်လပ်များ၌ရင်း အစုလိုက် အပြုံလိုက် ပေါက်ရောက်ကြလေသည်။

သစ်ကပ်မှော်တို့သည် အသုံးဝင်သော အပင်မျိုး ဖြစ်သည်။ အကြောင်းမူ အခြားအပင်များ ပေါက်ရောက်ရန် ခဲယဉ်းသော နေရာများ၌ ယင်းတို့ ပေါက်နိုင်ရန် မြေကို တဖြည်းဖြည်း ပြုပြင်ပေးကြသည်။ သစ်ကပ်မှော်မျိုးတို့တွင်

အက်ဆစ်တမျိုး ပါရှိရာ ထိုအက်ဆစ်ဓာတ်ဖြင့် မာကျောသော ကျောက်ဆောင် ကျောက်သားများကိုပင် ချေဖျက်၍ မြေကိုပျော့လာစေသည်။ ယင်းတို့ သေသွားသောအခါ မြေကြီးနှင့် ရောနှော၍ မြေဩဇာ ဖြစ်လာကြသည်။ ထိုကြောင့် ထိုနေရာတွင် အခြားအပင်များ ပေါက်ရောက်လာနိုင်လေသည်။ ယင်းသို့ဖြင့် သစ်ကပ်မှော်တို့သည် မြေဆီလွှာကို ပြုပြင်ပေးကြသည်။

သစ်ကပ်မှော်မျိုးဝင် အပင်များစွာတို့၌ ကစီဓာတ် ပါသဖြင့် အချို့ဒေသများတွင် ယင်းတို့ကို လူတို့အတွက်၎င်း၊ တိရစ္ဆာန်တို့ အတွက်၎င်း အစားအစာ ပြုလုပ်ကြသည်။ အိုက်စလန်ကျွန်းတွင် အိုက်စလန်ရေညှိပင်ဟုခေါ်သည့် သစ်ကပ်မှော်တမျိုးကို ပေါင်မုန့်ပြုလုပ်စားကြသည်။ မြောက်ဝင်ရိုးစွန်းနှင့် နီးကပ်သော ဒေသများ၌ တန်ဒြာ သမင်တို့၏ အဓိက အစာသည် တန်ဒြာရေညှိပင်ခေါ်သော သစ်ကပ်မှော်တမျိုး ဖြစ်သည်။ အချို့သစ်ကပ်မှော်မျိုးတို့ကိုမူ ဆိုးဆေးပြုလုပ်ရာ၌ အသုံးပြုကြလေသည်။

**သစ်ကျားပင်**။ ။ဆိမ့်အီသော အရသာနှင့် ပြည့်စုံပြီးလျှင် အဖိုးတန်သော အသီးဆန် ရရှိသဖြင့်၎င်း၊ လှပသော အကြောအကွက်ပေါ်သည့် သစ်သားကြောင့်၎င်း ရှေးပဝေဏီခေတ်ကပင် သစ်ကျားပင်ကို လူတို့ စိုက်ပျိုး အသုံးချခဲ့ကြောင်း သိရလေသည်။ ဘီစီ ၁၀ ရာစုနှစ်တွင် ပေါ်ထွန်းဘုန်းတောက်ခဲ့သော ဣသရေလ (အဇ္ဇရီယယ်) ပြည့်ရှင် ဆော်လမွန် ဘုရင်ကြီးတွင် သစ်ကျားဥယျာဉ် ရှိခဲ့သည်ဟု ဆိုကြသည်။ ရှေး ဂရိလူမျိုးတို့သည် အာတီးမစ် နတ်သမီးအားရည်စူး၍ သစ်ကျားပင်၌ ပူဇော်ပသခြင်း ပြုကြသည်။ ရောမ လူမျိုးတို့ကမူ သစ်ကျားသီးကို ဂျူပီတာနတ်မင်း၏ သစ်သီးတော်ဟု သတ်မှတ်ကြသည်။

သစ်ကျားပင်သည် ဂျူဂလန်ဒေစီအီးမျိုးရင်းတွင် ပါဝင်၍ မျိုးခွဲ၏အမည်မှာ ဂျူဂလန် ဖြစ်လေသည်။ သစ်ကျားမျိုးစိတ်တွဲပေါင်း ၁၀ မျိုးခန့်ရှိ၍ ဥရောပ၊ အာရှ၊ အမေရိကတိုက်စသော ကမ္ဘာ့မြောက်ဖက်ပိုင်း သမပိုင်းဒေသများ၌ မူလပေါက်ရောက်ခဲ့သည်။ သစ်ကျားပင်တို့ကို သိသာနိုင်သည့် သွင်ပြင်လက္ခဏာတို့မှာ ပင်စည်အခေါက် ကြမ်းခြင်း၊ အရွက်များသည် ထိပ်ရွက်မြွှာပါသော ရွက်ပေါင်း (ငှက်မွေးရွက်မြွှာမစုံ) ဖြစ်၍ အရွက်များကို ချေလိုက်လျှင် အနံ့သင်းသင်း မွှေးခြင်းတို့ ဖြစ်သည်။ ရွက်ပေါင်းတလက်လျှင် မျိုးစိတ်အလိုက် ခြောက်လက်မမှ ဆဲ့ငါးလက်မခန့်အထိ ရှည်နိုင်၍ ရွက်မြွှာ ငါးခုမှ ၁၃ ခုအထိ ပါရှိသည်။ ဆိုင်၍ ထွက်သော အရွက်များသည် ပြောင်ချောနေပြီးလျှင် ဘဲဥပုံသဏ္ဌာန်ရှိ၍ ထိပ်ချွန်သည်။ အကိုင်းနုများတွင် အမွေးထူသည်။

တပင်တည်းတွင် အဖို၊ အမ နှစ်မျိုးပွင့်ရာ အဖိုပွင့်သည် နှစ်လက်မမှ ငါးလက်မအထိရှည်သော ကြောင်မြီးပန်းခိုင်မျိုးဖြစ်သည်။ အမပွင့်သည် အညှာမဲ့သော အစိမ်းရောင်ပန်းကလေးများပါသည့် ပန်းခိုင်မျိုး ဖြစ်သည်။

အသီးတို့သည် အတွင်းခံမာသီးမျိုးဖြစ်၍ လုံးဝန်းသော ပုံသဏ္ဌာန် ရှိပြီးလျှင် အနံ့မွှေးသည်။ ထိုအသီးအတွင်း၌ အခွံရှုံ့တွမာကျောသော အဆန်ချောင် အစေ့သီးရှိသည်။ မြန်မာနိုင်ငံတွင် ထိုအဆန်ချောင် အစေ့သီးကို သစ်ကျားသီးဟု ခေါ်ဝေါ်ကြသည်။ ထိုအစေ့သီးကို ခွဲလိုက်လျှင် အခြမ်းတခြမ်းစီ၌ အစေ့ဆန်တို့သည် ဦးနှောက်နေပုံကဲ့သို့ တွန့်ခေါက်လျက် အကန့်လိုက် တည်ရှိနေသည်။ ထိုအစေ့ဆန်တို့သည် အီဆိမ့်သောအရသာရှိ၍ ကမ္ဘာပေါ်တွင် ပဌမတန်းစားအစေ့ဆန်၌ ပါဝင်သည်။ မြန်မာနိုင်ငံတွင် အစေ့ဆန်တို့ကို ထိုအတိုင်းလည်း စားသုံးကြသည်။ မန္တလေးထိုးမုံ့၊ ရွှေကြည်၊ နနွင်းမကင်းစသော မုံ့မျိုးတို့ လုပ်ကိုင်ရာ၌လည်း ထည့်သွင်း အသုံးပြုကြသည်။ အနောက်နိုင်ငံများတွင်လည်း မုံ့ပဲသရေစာ လုပ်ကိုင်ရာတွင် ထည့်၍ သုံးကြသဖြင့် အဖိုးတန်သော အစေ့ဆန် ဖြစ်လေသည်။ ထိုအစေ့ဆန်မှ ဆီထုတ်ယူ၍လည်း ရရှိနိုင်သည်။

မျိုးစိတ် ၁၀ မျိုးခန့် ရှိသည်ဟု အထက်တွင် ဆိုခဲ့သည့် အနက် အစေ့ဆန် အကောင်းဆုံး ရရှိသော သစ်ကျားပင်မျိုးကို အင်္ဂလိပ်၊ သို့မဟုတ် ပါးရှင်း သစ်ကျား (ရုက္ခဗေဒ အမည်မှာ ဂျူဂလန် ရီဂျီယားဖြစ်သည်၊)ဟု ခေါ်၍ တရုပ်နိုင်ငံမှ ဥရောပ အရှေ့တောင် ဒေသများအထိ မူလပေါက်ရောက်ခဲ့သည်။ မြေထဲပင်လယ်ဒေသ၌ ထိုသစ်ကျားမျိုးကို ရာစုနှစ်ပေါင်းများစွာ စိုက်ပျိုးလုပ်ကိုင်ခဲ့ကြ၍ ထိုမှတဆင့် ရာသီဥတု သင့်တင့်မျှတသော အခြားဒေသများသို့လည်း မျိုးပွါးခဲ့သည်။ ထိုအပင်မျိုးသည် အမြင့်ပေ ၄၀ မှ ပေ ၇၀ အထိ ရှိတတ်၍ အခေါက်သည် ချောမွတ်ကာ အရောင် မွဲသည်။ ထိုသစ်ကျားမျိုး၏ သစ်သားသည်လည်း လှပသော အကွက်များ အကြောများပါရှိ၍ နေအိမ် အဆောက်အအုံများ အတွင်း၌ မံလွှာ၊ သို့မဟုတ် မှန်ကူကွက်များအတွက် အသုံးပြုကြလေသည်။ ထိုသစ်ကျားမျိုး၏ အစေ့ဆန်ကို ပို၍ အရောင်းအဝယ် ပြုကြသဖြင့် အမေရိကန် ပြည်ထောင်စု၌ ၁၉ ရာစုနှစ် နောက်ပိုင်းတွင် စိုက်ပျိုးခဲ့ရာ အထူးသဖြင့် ကာလီဖိုးနီးယား ပြည်နယ်တွင် အကြီးအကျယ် စိုက်ပျိုးခဲ့လေသည်။

အမေရိကန် ပြည်ထောင်စုတွင် အထက်ပါ သစ်ကျားပင်မျိုးအပြင် အခြား လေးမျိုးကိုလည်း တွေ့ရှိရရာ အရေးအပါဆုံးတမျိုးမှာ သစ်ကျားမည်း (ရုက္ခဗေဒ အမည်ဖြင့် ဂျူဂလန် နီဂရာဟု ခေါ်သည်၊) ပင်မျိုး ဖြစ်သည်။ ထိုသစ်ကျားပင်မျိုးတို့ကို မာဆာချူးဆက်ပြည်နယ်မှ တောင်ဖက်

ဖလော်ရီဒါ ပြည်နယ်အထိဝင်း၊ အနောက်ဖက်၌ မင်နီဆိုတာ ပြည်နယ်အထိဝင်း တွေ့ကြရသည်။ အပင်သည် အမြင့်ပေ ၇၀ မှ ပေ ၁၀၀ ကျော်ခန့်အထိရှိ၍ အပင်အနေအထားခန့်ညား ကျော့ရှင်းခြင်း၊ ကြံ့ကြံ့ ခိုင်ခိုင် ရှိခြင်းကြောင့် ဥယျာဉ်ပန်းခြံကြီးများ၌ ကျက်သရေဆောင် အဖြစ်လည်း စိုက်ပျိုးကြသည်။ ပင်စည်၏ အခေါက်သည် ကြမ်းတမ်း၍ ပပ်ကြားအက်များ ထနေသည်။ သစ်ကျားမည်း၏ အစေ့ဆန်သည် အင်္ဂလိပ်သစ်ကျား အစေ့ဆန်လောက် အရသာ မရှိသော်လည်း ယင်းကို အရောင်းအဝယ် ပြုတန်သလောက် ပြုကြသည်။ သစ်ကျားမည်းပင်၏ တန်ဖိုးအထားရဆုံးသော အစိတ်အပိုင်းသည် သစ်သားဖြစ်သည်။ အရောင်သည် အညိုရင့်ဖြစ်၍ အရောင်တင်၍လည်း ကောင်းသည်။ ပင်စည်၏ အသား၌ လှိုင်းများထနေသကဲ့သို့ရှိသော အကွက်များ၊ ဘုအဆစ်အမြစ် အသားတို့၌ ဒေါင်းမြီး၊ သို့မဟုတ် ငှက်မျက်ဆန်ကဲ့သို့ အကွက်များ လှပစွာ ပေါ်လွင်နေသည်။ ထိုကြောင့် အနုသုံး အိမ်ထောင်ပရိဘောဂပစ္စည်းများ လုပ်ကိုင်ရာ၌၎င်း၊ အိမ် အဆောက်အအုံ၏ အတွင်းပိုင်း မွမ်းမံရာ၌၎င်း သစ်ကျားမည်းသစ်ကို အသုံးပြုကြသည်။ ထိုသစ်မျိုးသည် အလွန်ပါးသည်အထိ လွှာထုတ် နိုင်၍ ကောက်ခြင်း လိမ်ခြင်းလည်း မရှိချေ။ ပိုးစား ချကိုက်ခြင်းတို့ကိုလည်း အသင့်အတင့်ခံနိုင်ရည်ရှိ၍ အိမ်တွင်း ပစ္စည်းအဖြစ် ထားရှိပါက ကြာရှည် အသုံးခံလေသည်။

သစ်ကျားမည်းပင်တို့ထက် အထက်ပိုင်းကျသည့် ဒေသများ၌ ပေါက်ရောက်သော အမေရိကန် သစ်ကျားပင်တမျိုးမှာ သစ်ကျားဖြူ၊ သို့မဟုတ် ထောပတ် သစ်ကျားဟု ခေါ်သော သစ်ကျားမျိုးစိတ်ပေတည်း။ ထိုမျိုးစိတ်၏ အရွက်တို့သည် ကပ်စေးစေး ရှိတတ်သည်။ အမေရိကန်ပေါက် အခြားသစ်ကျားမျိုးတို့မှာ အနောက် တောင်ပိုင်း ပြည်နယ်များ၌ ပေါက်ရောက်သော မက္ကဆီကန်သစ်ကျား၊ မြင့်မားလှပသော ကာလီဖိုးနီးယား သစ်ကျားတို့ ဖြစ်ကြသည်။ အချို့သစ်ကျားမျိုးတို့၏ အသီးခွံကို ဆိုးဆေး၌ အသုံးပြုကြရလေသည်။

မြန်မာ ဆေးကျမ်းများ အလိုအရ သစ်ကျားသီးသည် သည်းခြေ၊ လေ၊ သလိပ်တို့နှင့် ယှဉ်၍ဖြစ်သော နှလုံးပူဆာလောင်သော အနာကိုဎင်း၊ အသားအရေ သွေ့ခြောက်သောအနာကိုဎင်း၊ နှလုံးမမွေ့လျော်သော အနာကိုဎင်း ချမ်းသာစေတတ်၏ဟု ဆိုသည်။

အင်္ဂလိပ်ဆေးကျမ်းများအလိုမှာအရွက်သည် တီဗီဂလင်



အဖိုးတန်သော အသီးဆန်နှင့် လှပသော အကြောအကွက်ပေါ်သည့် သစ်သားကြောင့် ထင်ရှားသည့် သစ်ကျားပင်



အရသာသက်၍ ဆိမ့်သည့် သစ်ကျားသီး

နာ၊ ကျပ်နာတို့အတွက် ဆေးဖက်ဝင်သည်ဟု ဆိုကြသည်။ အသီးသည် အားသစ်စေသော တန်ခိုးသတ္တိရှိ၍ ရူမက်တစ်ရောဂါအတွက် အသုံးပြုကြသည်။ မမှည့်သေးသော အသီးသည် ကလေးများအတွက် သန်ချဆေးတမျိုး အဖြစ် သုံးနိုင်သည်။ သစ်ကျားသီးနုနုများ စိမ်ထားသည့် ရှာလကာရည်ဖြင့် အာခလောက်ပေးလျှင် လည်ချောင်းနာသာမက ပြည်တည်သည့်အနာပင် ပျောက်စေနိုင်သည်ဟု ဆိုသည်။ အသီးခွံ အစိမ်းသည်လည်း သန်ချဆေး၊ ဆစ်ဖလစ်ရောဂါကာကွယ်ဆေးတို့၌ အသုံးဝင်သည်။အစေ့ဆန်မှထုတ်ယူရရှိသော အဆီသည် ဓာတ်ပျော့ပျော့သွားစေသော တန်ခိုးသတ္တိရှိ၍ သန်ချဆေး၊ အထူးသဖြင့် တုပ်ပြားသန်ကောင်ချဆေး တမျိုးအဖြစ်လည်း အသုံးပြုနိုင်လေသည်။

သစ်ကျားပင်များသည် ရာသီဥတုနှင့် နေရာဒေသရွေးသော အပင်များဖြစ်ကြသည်။ ထိုကြောင့် သစ်ကျားပင်မျိုးတို့ကို စိုက်ပျိုး ပြုစုနိုင်သော နေရာဒေသသည် ကျဉ်းမြောင်းလှပေသည်။ ယင်းတို့သည် အပင်ပေါက်စ အချိန်တွင် နှင်းရိုက် မခံနိုင်သော်လည်း ကြီးထွားလာချိန်တွင်မူ ခံနိုင်ရည်ရှိသည်။ ပူပြင်းသောရာသီဥတုသည် အစေ့သီးကို ထိခိုက်စေနိုင်သည်။ မြေပြင်၏အောက်တွင် ပေ ၂၀ ထက်နီး၍ ရေလွှာရှိနေလျှင်၎င်း၊ မြေစေးမာလျှင်၎င်း သစ်ကျားပင်တို့ မဖြစ်ထွန်းနိုင်ပေ။

သစ်ကျားပင်ကို အစေ့ပျိုး၍ စိုက်ရသည်။ တတန်းနှင့် တတန်းလေးပေကွာသောပျိုးခင်း၌ အစေ့များကို တပေခန့်ခွာ၍ စိုက်ပျိုးရသည်။ နွေလယ်ကာလတွင် ရေသွင်းပေးရသည်။ တနှစ်သားခန့်ရှိလျှင် နှစ်ပေခန့်မြင့်လေရာ ထိုအချိန်တွင် နှစ်သက်ရာ သစ်ကျားပင်မျိုးတို့ဖြင့် ကိုင်းကူးပေးနိုင်သည်။ ကိုင်းကူးစိုက်သော အပင်တို့သည် ပဌမနှစ်တွင် ရှစ်ပေခန့်အထိ မြင့်လာနိုင်သည်။ ထိုအပင်များ တနှစ်၊ သို့မဟုတ် နှစ်နှစ်ခန့် ရှိလာလျှင် နေရာတကျ စိုက်မည့်နေရာသို့ ပြောင်း၍ တပင်နှင့်တပင် ပေ ၅၀ ခန့်ခွာပြီးလျှင် စိုက်ရသည်။ မြေပြင်မှ ပင်စည်အမြင့် လေးပေခန့် ရှိလာလျှင် အကိုင်းအလက်များ ထွက်စပြုလာသော်လည်း ယင်းတို့ကို အနည်းအကျဉ်းမျှသာ ရှင်းလင်း ချိုင်ပေးရသည်။ အပင်သက် ခြောက်နှစ်ခန့်မှစ၍ အသီးသီးသော အမျိုးအစားလည်းရှိသော်လည်း ၁၀ နှစ်သား အပင်များသည်သာလျှင် အသီးများကို အောင်အောင်မြင်မြင် သီးနိုင်သည်။ အသီးလှိုင်လှိုင်သီးချိန်သည် အပင်သက် ၂၀ ခန့်အရတွင် ဖြစ်ပေရာ နောက်ထပ်အနှစ် ၂၀ ခန့်အထိ သီးနေနိုင်ပေသည်။ ဥရောပတိုက်ရှိ သစ်ကျားပင်အချို့သည် အပင်သက် ၁၁၀ ကျော်နေပြီကို တွေ့ကြရလေသည်။

**သစ်ကြံပိုးပင်။** ။သစ်ကြံပိုးပင်သည် လော်ရေစီအီး မျိုးရင်းတွင်ပါဝင်၍ မျိုးခွဲ၏အမည်သည် စင်နာမိုမမ်ဖြစ်သည်။ သစ်ကြံပိုးမျိုးစိတ်ပေါင်း ၂၇၀ ကျော် ရှိ၍ ခြုံပင်၊ သစ်ပင်တို့လည်း ပါဝင်သည်။ အာရှတိုက်နှင့် ဩစတြေးလီးယားတိုက်တို့တွင် ပျံ့နှံ့ပေါက်ရောက်ရာ အိန္ဒိယနိုင်ငံတွင် ပေါက်ရောက်သော သစ်ကြံပိုးပင်တို့သည် အမျိုး ၂၀ ခန့်ရှိ၍ မြန်မာနိုင်ငံတွင် ကရဝေးမှန်သင်း၊လုလင်ကျော်(နလင်ကျော်) ဟု ခေါ်ဝေါ်ကြသော အပင်များသည်လည်း သစ်ကြံပိုးမျိုးဝင်များ ဖြစ်ကြပေသည်။

သစ်ကြံပိုးခေါက်သည် ဟင်းခတ်အမွှေးအကြိုင် တမျိုးအဖြစ် ထင်ရှားကျော်ကြားသည်။ အခေါက်သည်သာမက အရွက်သည်လည်း ဟင်းခတ်အမွှေးအကြိုင်များတွင် အပါအဝင်ဖြစ်သည်။ အခေါက်၊ အရွက်၊ အမြစ်စသည်တို့မှ ထုတ်ယူရရှိသော အဆီသည် ဆေးဖက်လည်းဝင်သည်။ ဆပ်ပြာ၊ ရေမွှေး၊ ဆေးဝါးစသည်တို့ကို လုပ်ကိုင်ရာ၌လည်း အသုံးပြုကြရသည်။ ထိုကြောင့် သစ်ကြံပိုးမျိုးဝင် အပင်များစွာတို့သည် စီးပွားကုန်သွယ်ရေး တန်ဖိုးရှိကြပေသည်။ ယင်းတို့အနက် အရေးပါ၍ အထင်ရှားဆုံးသော သစ်ကြံပိုး လေးမျိုးကိုသာ ဖော်ပြလိုပေရာ၊ ထိုလေးမျိုးမှာ သီဟိုဠ်သစ်ကြံပိုး၊ မြန်မာသစ်ကြံပိုး၊တရုပ်သစ်ကြံပိုးနှင့် ပရုတ်သစ်ကြံပိုးတို့ ဖြစ်ပေသည်။

သီဟိုဠ်သစ်ကြံပိုးကို သစ်ကြံပိုးအစစ် ဟူ၍လည်း ခေါ်သည်။ မြန်မာနိုင်ငံတွင် သဘော်သစ်ကြံပိုးဟုလည်း ခေါ်သေးသည်။ ရုက္ခဗေဒအမည်မှာ စင်နာမိုမမ် ဇေလာနီကမ် ဖြစ်သည်။ ထိုအပင်မျိုးသည် အိန္ဒိယနိုင်ငံ အနောက်ပိုင်းနှင့် တောင်ပိုင်းဒေသများတွင်၎င်း၊ သီဟိုဠ်ကျွန်းတွင်၎င်း၊ မြန်မာနိုင်ငံတောင်ပိုင်း တနင်္သာရီတိုင်းတွင်၎င်း ပေါက်ရောက်သည်။ အိန္ဒိယနိုင်ငံ အနောက်ပိုင်း တောင်ဖက် ပင်လယ်ကမ်းရိုးတန်းတလျှောက်တွင် ပေ ၆,၀၀၀ အထိ မြင့်သောဒေသများ တိုင်အောင် ထိုသစ်ကြံပိုးပင်မျိုးတို့ အလေ့ကျ ပေါက်ရောက်လျက် ရှိသည်ကို တွေ့ရသည်။ ပင်လယ်ရေပြင်မှ အမြင့်ပေ ၁၀၀ မှ ပေ ၇၀၀ အထိရှိသော ဒေသများ၌ အများအပြား ပေါက်ရောက်၍ ပေ ၃,၅၀၀ အမြင့်

ရှိသော ဒေသများတွင်လည်း အတော်အသင့် တွေ့ရှိရလေသည်။

ထိုသစ်ကြံပိုးပင်တို့သည် အပင်အလတ်စားဖြစ်၍ အမြင့် ပေ ၂၀ မှ ၂၅ ပေအထိ ရှိနိုင်သည်။ သီဟိုဠ်ကျွန်းတွင် ပေ ၆၀ ခန့်မြင့်သော ထိုသစ်ကြံပိုးပင်မျိုးများကို ရံဖန်ရံခါ တွေ့ရသည်။ အရွက်များသည် လေးလက်မမှ ခုနစ်လက်မအထိ ရှည်၍ ပျဉ်းတွဲတွဲနေသည်။ အရွက်ရင့်များ၏ အပေါ်ဖက်သည် တောက်ပသည်။ အရွက်ကိုချေလိုက်လျှင် စူးရှရှ မွှန်တွန်တွန်အနံ့မျိုးထွက်သည်။ အရွက်တရွက်တွင် သုံးခုမှ ငါးခုအထိ အကြောများ ယှဉ်ပြိုင်ပါရှိသော ကြောပြိုင်အရွက်မျိုးဖြစ်လေသည်။ဇန္နဝါရီလလောက်တွင် စိမ်းဝါဝါအပွင့်ကလေးများပါသည့် ပန်းခိုင်မျိုးပွင့်သည်။ အပွင့်အနံ့မကောင်းချေ။ မေလမှ ဩဂုတ်လအတွင်း အသီးများ သီး၍ မှည့်သည်။ ခရမ်းရင့်ရောင်ရှိသော အသီးသည် အခွံပျော့၍ အစေ့တစေ့တည်းသာ ပါသည်။ ဘဲဥပုံသဏ္ဌာန်ရှိ၍ လက်မ ဝက်ခန့်မှ တလက်မခန့်အထိ ရှည်ပြီးလျှင် အသီးကို ခွဲကြည့်လျှင် တာရပင်ဆီအနံ့မျိုး ထွက်လေသည်။

အပင်ပျိုနှင့် ငုတ်တက်တို့၏ အခေါက်သည် ချောမွတ်၍ ဖြူဖျော့ဖျော့အရောင်ရှိသည်။ အကိုင်းရင့်များ၏ အခေါက်သည် ကြမ်း၍ အညိုရောင် ဖြစ်သည်။ အလယ်ကိုင်းများမှ အခေါက်သည် အပြင်ကိုင်းများမှ အခေါက်ထက် ပို၍ကောင်းသည်။ အကိုင်းအလယ်မှအခေါက်သည် အရင်းနှင့် အဖျားပိုင်း အခေါက်ထက် ပို၍ကောင်းသည်။ အပင်အရင်းပိုင်း၏ အခေါက်သည် အညံ့စားဖြစ်လေသည်။

ထိုသစ်ကြံပိုးပင်မျိုးကို သီဟိုဠ်ကျွန်း၌ အကြီးအကျယ်စိုက်ပျိုးလုပ်ကိုင်၍ သစ်ကြံပိုးခေါက်များကို ကမ္ဘာ့ အရပ်ရပ်သို့ အများဆုံး တင်ပို့နိုင်ခဲ့သည်။ အိန္ဒိယနိုင်ငံသည် အလေ့ကျပေါက်သော အပင်များမှရရှိသည့် အခေါက်များကိုသာ တင်ပို့ရောင်းချရာ သီဟိုဠ်မှ သစ်ကြံပိုး ခေါက်က အမျိုးအစားပို၍ကောင်းလေသည်။

သီဟိုဠ်သစ်ကြံပိုးပင်မျိုးသည် အပူပိုင်းဇုန်ဒေသအတွင်း၌ဖြစ်လျှင် မြေအမျိုးအစား မရွေးပဲ ပေါက်ရောက်ဖြစ်ထွန်းနိုင်သည်။ သို့သော် အခေါက်အမျိုးအစားတွင်သာ ကွာခြားမှု ရှိလေသည်။ သီဟိုဠ်ကျွန်းဒေသတွင်ပင် သဲဖြူဆံသောမြေမျိုး၌ စိုက်ပျိုးပေါက်ရောက်သည့် အပင်မှရရှိသော သစ်ကြံပိုးခေါက်သည် အကောင်းဆုံး ဖြစ်သည်ကို တွေ့ရလေသည်။

ထိုသစ်ကြံပိုးမျိုးကို အစေ့ပျိုး၍ စိုက်ရသည်။ ယင်းတို့သည် အနည်းဆုံး မိုးရေချိန်လက်မ ၇၀ ခန့်လိုသည်။ အပင်များပျိုး၍ နှစ်နှစ်ခန့်ရှိလျှင် အပင်ပေါက်များသည် ခြောက်ပေမှ ရှစ်ပေခန့်အထိ မြင့်လာ၍ အပင်လုံးသည် လက်ညှိုးလက်မခန့် ဖြစ်လာသည်။ စိုက်ခင်းထဲတွင် အပင်များကို ထိုထက် ပိုမိုမြင့်မား ကြီးထွားအောင် မထားပဲ အခေါက်ရနိုင်ရန် ထိုအရွယ်၌ပင် အပင်များကို ခုတ်ချရသည်။ ထိုအရွယ်၌ခုတ်မှသာ အခေါက်ခွာ၍ လွယ်သည်။ သီဟိုဠ်ကျွန်း၌ မေလမှ ဩဂုတ်လအတွင်း၌၎င်း၊ အောက်တိုဘာလမှ ဒီဇင်ဘာလအတွင်း၌၎င်း ခုတ်ရသည်။ ခြောက်သွေ့သော ရာသီဥတုအခါ၌ ခုတ်လျှင် အခေါက်ခွာရန် မလွယ်ကူချေ။ မြေကြီးနှင့်ကပ်၍ အပင်ကို ခုတ်ချသော်လည်း နောင်အခါ ငုတ်တက်များ ပြန်၍ထွက်ပြီးလျှင် အပင်ပြန်၍ တက်လာလေသည်။

ဖြတ်ချလိုက်သော အပင်လုံး၏ အခက်အလက်များကို ရှင်းလင်းပြီးနောက် အပင်လုံး၏တဖက်တချက်တွင် ဓားနှင့် တချက်စီ အလျားလိုက် မွမ်းချလိုက်ရသည်။ မိုးရာသီအတွင်း မဟုတ်လျှင် အခေါက်ကပ်နေတတ်ရာ ဓားရိုးဖြင့်ဖြစ်စေ၊ တုတ်ဖြင့်ဖြစ်စေ ပင်လုံးကို အနည်းငယ် ထုရိုက်ပေးရသည်။ ထိုအခါမှ အခေါက်ကွာလေသည်။

ခွာပြီးသားအခေါက်များကို စုစည်းပြီးလျှင် တရက်နှစ်ရက်ခန့် ဖိထားရသည်။ ထိုအခါမှ အခေါက်အပေါ်ဖက်ရှိ အမြှေးနှင့် အောက်ဖက်တွင် ကပ်နေသော အသားဖတ်တို့ကို ခွာထုတ်ယူရန်လွယ်သည်။ ယင်းတို့ကို ခွာပြီးလျှင် အခေါက်များကို တပေခန့်အရှည်ထား၍ ပိုင်းဖြတ်ကာ သုံးရက်ခန့် နေပြ၍ ခြောက်အောင်လှန်းရလေသည်။ ထိုအခါ အခေါက်ရောင်သည် ညိုလာပြီးလျှင် အခေါက်များသည်လည်း ခွေလိပ်သွားကြလေသည်။ ထိုအခါမှ အခေါက်လိပ်များကို အစည်းများစည်းကာ အရွယ်အစားခွဲခြား၍ ထုပ်ပိုးပြီးလျှင် နိုင်ငံခြားသို့ တင်ပို့သည်။ များသောအားဖြင့် သီဟိုဠ်ကျွန်းမှ သစ်ကြံပိုးခေါက်ကို ဂျာမနီနှင့် အမေရိကန်ပြည်ထောင်စုသို့ တင်ပို့ရလေသည်။

သီဟိုဠ်ကျွန်းတွင် တဧကရှိသော စိုက်ခင်းမှ သစ်ကြံပိုးခေါက်ပေါင်ချိန် ၁၅၀ ခန့်ထွက်သည်။စိုက်ပျိုးပြုစုမှုကောင်းပါလျှင် ဆယ်နှစ်ခန့်အထိ တနှစ်ထက်တနှစ် အထွက်တိုးလာနိုင်လေသည်။

သီဟိုဠ်သစ်ကြံပိုးပင်၏ အခေါက်၊ အရွက်၊ အမြစ်တို့မှလည်းဆီထုတ်ယူရရှိသည်။သစ်ကြံပိုးခေါက်တွင်ဆီ ½ ရာခိုင်နှုန်းမှ တစ်ရာခိုင်နှုန်းအထိ ပါရှိသည်။ ထုတ်ယူပြီးစ ဆီအရောင်သည် အဝါနုဖြစ်သော်လည်း ကြာလျှင် အနီရောင်သို့ပြောင်းသွားလေသည်။ သီဟိုဠ်ကျွန်းတွင် ထုတ်ယူသော အခေါက်ဆီထက် ဥရောပနှင့် အမေရိကန်ပြည်ထောင်စု တို့တွင် ထုတ်ယူသောအခေါက်ဆီက ပို၍ အမျိုးအစားကောင်းသည်။ ဥရောပနှင့် အမေရိကန်ပြည်ထောင်စုတွင် သီဟိုဠ်မှ တင်ပို့သော သစ်ကြံပိုးခေါက်များမှ အဆီထုတ်ယူခြင်း ဖြစ်သည်။ အိန္ဒိယနိုင်ငံတွင်မူ သစ်ကြံပိုးခေါက်များကို ဆီထုတ်ယူခြင်းမပြုလုပ်ကြချေ။အခေါက်ဆီကို ချိုချဉ် မုန့်ပဲသရေစာ

လုပ်ငန်း၊ အရက်ချက်မွှေးလုပ်ငန်း၊ ဆေးဝါးလုပ်ငန်း၊ ဆပ်ပြာလုပ်ငန်း၊ သွားကိုက်ပျောက်ဆေးနှင့် သွားတိုက်ဆေးလုပ်ငန်းတို့တွင် အသုံးပြုကြသည်။ အထူးသဖြင့် အစာကြေ ရင်ချောင်စေသော ဆေးဝါးများ ဖော်စပ်ရာ၌ ထည့်သွင်းအသုံးပြုကြလေသည်။

အရွက်တွင် ဆီတစ်ရာခိုင်နှုန်းပါရှိ၍ အရွက်ဆီ၏အရောင်သည် ညိုသည်။ ပူရှိန်းရှိန်းအရသာရှိပြီးလျှင် ပရုတ်နံ့ထွက်သည်။ ရေမွှေးလုပ်ငန်းနှင့် ချိုချဉ် မုံ့ပဲသရေစာလုပ်ငန်း၊ ဆပ်ပြာလုပ်ငန်းတို့တွင် ထိုဆီကို အသုံးပြုကြသည်။ လေးညှင်းဆီ နည်းတူ ဆေးဖက်ဝင်၍ လေးညှင်းဆီကဲ့သို့ရင်း၊ အခေါက်ဆီကဲ့သို့ရင်း ဆေးဝါးဖော်စပ်ရာ၌ သုံးကြသည်။ ရူမက်တစ်ရောဂါအတွက် လိမ်းဆေးအဖြစ်လည်း အသုံးပြုနိုင်လေသည်။

အမြစ်တွင် ဆီ သုံးရာခိုင်နှုန်းပါသည်။ အမြစ်မှထုတ်ယူရရှိသော ဆီသည် အခေါက်ဆီ၊ အရွက်ဆီတို့နှင့် မတူပေ။ အရောင်အဆင်း မရှိပဲ ပရုပ်နံ့ပြင်းသည်။ အမြစ်ဆီကို အသုံးနည်း၍ အရောင်းအဝယ် မပြုလုပ်ကြချေ။

အသီးမှ ရရှိသော ဆီသည်လည်း ဆေးဖက်ဝင်သည်ဟု ဆိုသည်။ အသီးရင့်များကို ဘုံဘိုင်မြို့သို့တင်ပို့၍ လေးညှင်းပွင့်များနှင့် ရောနှော ရောင်းချကြလေသည်။ အစေ့များတွင် ဆီ ၃၃ ရာခိုင်နှုန်း ပါရှိ၍ ယင်းတို့မှ ထုတ်ယူရရှိသော ဆီကို ဖယောင်းတိုင် လုပ်ကိုင်ရာ၌ အသုံးပြုကြလေသည်။

သီဟိုဠ်သစ်ကြံပိုးပင်၏အသားသည်ညိုမှိုင်းမှိုင်းအရောင်ဝါညိုညို အရောင်မျိုးရှိတတ်၍ အကွက်အပျောက် မပါရှိချေ။ အနည်းနှင့်အများ အရောင်တောက်ပ၍ အနံ့သင်းသင်းမွှေးသည်။ အသားသည် မလေးလွန်းပဲ ပေါ့ပေါ့ပါးပါး ရှိတတ်၍ အကြောဖြောင့်သည်သာ များလေသည်။ များသောအားဖြင့် အသားညက်၍ ပျော့ပြီးလျှင် အသားသေအောင် ပြုရန် လွယ်ကူသော်လည်း ကောက်ကွေးခြင်း ကွဲအက်ခြင်း ဖြစ်တတ်လေသည်။

ရုက္ခဗေဒအမည်ဖြင့် စင်နာမိုမမ် တမလာဟု ခေါ်သော သစ်ကြံပိုးပင်မျိုးကို မြန်မာနိုင်ငံတွင် မြန်မာ သစ်ကြံပိုးဟု အမည် သတ်မှတ်ထားသည်။ ယင်းအပင်မျိုးသည် ဟိမဝန္တာတောင်တန်း၏ အရှေ့ပိုင်း၊ အရှေ့ဗင်္ဂလားပြည်နယ်၊ခါဆီတောင်တန်း၊ ဂျိန္တိယာ တောင်တန်းနှင့် မြန်မာနိုင်ငံတို့၌ တွေ့ရှိရပြီးလျှင် မြေပြင်အမြင့် ပေ ၃,၀၀၀ မှ ၇,၀၀၀ ရှိသော ဒေသများ၌ ပေါက်ရောက်လေသည်။

ရွက်မပြတ်သော အပင်မျိုးဖြစ်၍ အပင်အလတ်စားမျိုးတွင်ပါဝင်ပြီးလျှင် ၂၅ ပေ ခန့်အထိ မြင့်နိုင်၍ လုံးပတ်လေးပေခွဲခန့် ရှိလေသည်။ အရွက်သည် လှံသွားပုံရှိ၍ ကြွပ်ဆတ်သည်။ ထိုသစ်ကြံပိုးပင်မျိုး၏ အရွက်ကို အခေါက်ထက်ပို၍ အသုံးများကြသည်။ ထိုအပင်မျိုး၏ အခေါက်သည် သီဟိုဠ်သစ်ကြံပိုးခေါက်ထက် ပို၍ ကြမ်းလေသည်။ ဆစ်ကင်ပြည်၌ ပေါက်ရောက်သော ထိုသစ်ကြံပိုးပင်မျိုး၏ အခေါက်ကိုမူ ဟင်းခတ် အမွှေးအကြိုင် အဖြစ်လည်း အသုံးပြုကြသည်။ သစ်ကြံပိုးအစစ်ခေါက် (သီဟိုဠ်သစ်ကြံပိုးခေါက်) နှင့် ရောနှောရောင်းချခြင်းလည်း ပြုကြလေသည်။

ထိုသစ်ကြံပိုးပင်ကိုလည်း အစေ့ပျိုး၍ စိုက်ကြသည်။ အပင်သက် ၁၀ နှစ်ခန့်ရှိလျှင် အရွက်များကို ခူးနိုင်ပေပြီ။ ထိုအချိန်မှစ၍ နောင်နှစ်ပေါင်း ၁၀၀ ခန့်အထိ ထိုသစ်ကြံပိုးပင်များမှ အကျိုးခံစားခွင့် ရနိုင်ကြပေသည်။

အရွက်များကို မိုးကုန်စပြုသော အောက်တိုဘာလမှ ဒီဇင်ဘာလများအတွင်း ဆွတ်ခူးကြသည်။ အချို့ဒေသများတွင် မတ်လအထိ ခူးကြလေသည်။ အပင်ပျိုများမှ တနှစ်တခါခူးကြသော်လည်း အပင်အိုများမှ နှစ်ခြား ခူးကြရသည်။ အရွက်များ ခူးဆွတ်ချိန်တွင် အရွက်များများပါသော အကိုင်းများကို ခုတ်ချ၍ သုံးရက်လေးရက်မျှ နေလှန်းရသည်။ ထိုနောက် ထိုအကိုင်းများကို စည်းနှောင်၍ ဈေးသို့ တင်ပို့ရောင်းချကြသည်။ အချို့ဒေသတွင် အရွက်များကို ချွေ၍ တောင်းများတွင် ထည့်ပြီးလျှင် ဈေးသို့ ပို့လေသည်။

ထိုအရွက်များကို များသောအားဖြင့် ဟင်းခတ်အမွှေးအကြိုင်အဖြစ်အသုံးပြုကြသော်လည်း ကသ္မီယပြည်နယ်တွင် ကွမ်းကဲ့သို့ စားသုံးကြသည်။ စင်စစ် အရွက်ကို ဟင်းခတ်အမွှေးအကြိုင်အဖြစ် သုံးကြသော သစ်ကြံပိုးပင်မျိုးသည် စင်နာမိုမမ် တမလာ တမျိုးတည်းမဟုတ်ချေ။ စင်နာမိုမမ် အင်နာမီဒီယမ်၊ စင်နာမိုမမ် အော့တူစီဖိုလီယမ်နှင့် စင်နာမိုမမ် အယ်လဗီဖလော်ရမ်တို့၏ အရွက်များကိုလည်း ဟင်းခတ်အမွှေးအကြိုင်အဖြစ် သုံးကြသည်။ မြန်မာနိုင်ငံတွင် ဟင်းခတ်အမွှေးအကြိုင်အဖြစ် အသုံးများသော ကရဝေးရွက်သည် စင်နာမိုမမ် အင်နမ့်တမ်၏အရွက် ဖြစ်သည်။

ထိုသစ်ကြံပိုးအရွက်မှထုတ်ယူရရှိသော ဆီသည် သီဟိုဠ်သစ်ကြံပိုးအရွက်ဆီနှင့်တူသည်။ အခေါက်ဆီအရောင်သည် ဝါဖျော့ဖျော့ဖြစ်သည်။ ယခုအခါ ဓာတုဗေဒသစ်ကြံပိုးဆီအတုများပေါ်လာ၍ ထိုဆီများ အရောင်းအဝယ် ယုတ်လျော့လာလေသည်။ ယင်းတို့ကို တာရပင်ဆီ အပေါ်စားများနှင့်လည်း ရောနှော၍ ရောင်းချကြလေသည်။

တရုပ်သစ်ကြံပိုးဟု ခေါ်ဝေါ်ကြသော သစ်ကြံပိုးမျိုး၏ ရုက္ခဗေဒအမည်သည် စင်နာမိုမမ် တက်ဆီယာဖြစ်သည်။ ထိုသစ်ကြံပိုးပင်တို့သည် အပင်အလတ်စားမျိုးဖြစ်၍ ပေ ၄၀ မှ ၅၀ အထိ အမြင့်ရှိနိုင်သည်။အရွက်များသည် လှံသွားပုံရှိ၍ ကြွပ်ဆတ်လေသည်။ အင်ဒိုချိုင်းနားပြည်၌ မူလပေါက်ရောက်ရာမှ တရုပ်၊ ဂျားဗား၊ သီဟိုဠ် စသောအာရှတိုက်ဒေသများသို့ မျိုးပျံ့ခဲ့သည်။ ရှေးပဝေဏီကပင် ထိုသစ်

ကြံပိုးမျိုးကို ဟင်းခတ် အမွှေးအကြိုင်အဖြစ် အသုံးပြုခဲ့ကြောင်းကို ခရစ်မပေါ်မီ နှစ်ပေါင်း ၂,၇၀၀ က တရုပ်နိုင်ငံ၏ အပင်ငယ်စာရင်း၌ ပါရှိသည်ကိုင်း၊ သမ္မာကျမ်းစာနှင့် ဂရိစာပေများ၌ ပါရှိသည်ကိုင်း ထောက်ထား၍ သိရှိရလေသည်။ တပင်လုံးပင် အနံ့သင်း၍ အခေါက်သည် သီဟိုဠ်သစ်ကြံပိုးထက် အတန်ငယ်ညံ့သော်လည်း ထိုသစ်ကြံပိုးခေါက်အစား အသုံးပြုနိုင်သည်။ ထိုသစ်ကြံပိုးပင်မျိုး၏ အသီးသည်လည်း ဆေးဖက်ဝင်သည်။ အရွက်မှ ထုတ်ယူရရှိသော ဆီကို ဆပ်ပြာလုပ်ငန်းနှင့် ဆေးဝါးလုပ်ငန်းတို့၌ အသုံးချ၍ တရုပ်နိုင်ငံမှ ထိုဆီမျိုးကို အများဆုံး ထုတ်လုပ် တင်ပို့လေသည်။

တရုပ်သစ်ကြံပိုးမျိုးကို သီဟိုဠ် သစ်ကြံပိုးပင်မျိုးတို့ကဲ့သို့စိုက်ပျိုးရသည်။ သို့သော် သီဟိုဠ်သစ်ကြံပိုး ကဲ့သို့ အပင်ငယ်ငယ်အရွယ်တွင် ခုတ်ချခြင်းမပြုသဖြင့် အပင်ကြီးများဖြစ်လေသည်။ ထို့ကြောင့် အခေါက်ရနိုင်ရန် အပင်ကြီးများ၏ အကိုင်းအခက်များကို အချိန်အခါအလိုက် ခုတ်ချ၍ အခေါက် ခွာယူကြသည်။ ယင်းတရုပ်သစ်ကြံပိုးပင်၏ အခေါက်များသည် သီဟိုဠ်သစ်ကြံပိုးခေါက်များ ကဲ့သို့ ခွေလိပ်ခြင်းမရှိပေ။

ကုန်သွယ်ရေး စီးပွားရေးအတွက် ထွက်ကုန်ပစ္စည်းရရှိသော အခြား သစ်ကြံပိုးတမျိုးမှာ ပရုတ် သစ်ကြံပိုးဖြစ်သည်။ ပရုတ်သစ်ကြံပိုးပင်ကို ရုက္ခဗေဒအမည်ဖြင့် စင်နာမိုမမ် ကမ်ဖိုရာဟု ခေါ်၍ ပရုတ် ချက်ယူရရှိသော ပရုတ်ပင်ဖြစ်လေသည်။ (ပရုတ် — ရှု။)

# ''ပန်းပျံ့ပင်ဆင့်-မြေနှင့်ရန်ဖက်''

**ရောင်စုံလိပ်ပြာကလေးများနှယ် အလှကြွယ်သည့် သစ်ခွပန်းများသည် ယင်းတို့၏ ထူးခြားသော သဘာဝ၊ ပုံပန်းသဏ္ဌာန်နှင့် အဆင်အသွေးတို့ကြောင့် ပန်းလောကတွင် ထင်ပေါ်ကျော်ကြားသည်။ ကမ္ဘာပေါ်၌ တန်ဖိုးအရှိဆုံး ပန်းမျိုးဖြစ်၍ နိုင်ငံကြီးများ၌ စီးပွားဖြစ် ကြီးကြီးကျယ်ကျယ် စိုက်ပျိုးကြသည်။**

**သစ်ခွပန်း။** ။ကမ္ဘာ့ပန်းလောကတွင် တန်ဖိုးအထားဆုံး၊ ဈေးအများဆုံးပေးရသော ပန်းမျိုးသည် မြန်မာစာပေတို့၌ ''ပင်ဆင့်ပန်းပျံ့'' ဟု တင်စားခေါ်ဝေါ်ကြသော သစ်ခွပန်းဖြစ်လေသည်။ ရှေးမြန်မာမင်းများလက်ထက်က သစ်ခွပန်းတမျိုးဖြစ်သော သဇင်ပန်းကို ''ပန်းပျံ့များဘုရင်'' ဟု ခြီးကျူး ခေါ်ဝေါ်ကြပြီးလျှင် တော်ဝင်ပန်းမြတ် အဖြစ် သတ်မှတ်ထား၍ ပေါ်ဦးပေါ်ဖျားသဇင်တော်များကို ဘုရင်မင်းမြတ်ထံ ဆက်သသည့်အခါ ရွှေထီးမိုး၍ သိုင်းနှင့်ကျိုင်းနှင့် ဝန်းရံ ဆက်သရလေသည်။ အနောက်နိုင်ငံများတွင် မျိုးကောင်း၍ ရှားပါးသော သစ်ခွပန်းတအုံတဖွဲ့ကို ငွေပေါင်း ထောင်သောင်းချီ၍ ပေးဝယ်ကြသည်။ ထိုနိုင်ငံများတွင် သစ်ခွပန်း လက်ဆောင်ပေးလျှင် စိန်ရွှေရတနာများ လက်ဆောင်ပေးခြင်းထက်ပင် မျက်နှာပွင့်လန်းပေသေးသည်။ ထိုမျှလောက် အမြတ်တနိုးထားဖွယ်ရာ၊ မက်မောကြဖွယ်ရာ ကောင်းအောင်လည်း အချို့ သစ်ခွပန်းများသည် ထူးကဲလှပေ၏။ နူးညံ့သော ပွင့်ဖတ် ပွင့်ချပ်၊ သိမ်မွေ့တင့်ဆန်းသော အရောင်အသွေး၊ သင်းပျံ့ယဉ်ကျေးသော ရနံ့တို့ဖြင့် ပြည့်စုံကြပေသည်။ အချို့သစ်ခွပန်းများသည် ရောင်စုံလိပ်ပြာကလေးများနှင့် ယိုးမှားဖွယ်ရာ ပုံပန်းသဏ္ဌာန် အရောင်အသွေး လှပယဉ်ကျေးကြလေသည်။

သစ်ခွပင်တို့သည် အောကိဒေစီအီး မျိုးရင်းတွင် ပါဝင်၍ အပင်လောက၌ မျိုးစိတ်မျိုးပြား အများဆုံးသော အပင်မျိုး ဖြစ်သည်။ သစ်ခွထက် မျိုးစိတ်ပိုမိုများပြားသော အပင် နှစ်မျိုး သုံးမျိုးခန့်သာလျှင် အပင်လောကတွင် ရှိတော့သည်ဟု ဆိုကြသည်။ ယနေ့အထိ ကမ္ဘာပေါ်တွင် သစ်ခွမျိုးစိတ်ပေါင်း ၁၂,၀၀၀ ကျော်ခန့် ရှိနေ၍ တနှစ်ထက် တနှစ်လည်း တိုးတက်များပြားလျက်ရှိလေသည်။

ကမ္ဘာပေါ်တွင် အေးလွန်းသောဒေသ၊ ပူလွန်းသောဒေသများမှလွဲလျှင် ကမ္ဘာ့အရှေ့ခြမ်း အနောက်ခြမ်း နှစ်ခြမ်းလုံး၌ပင် သစ်ခွပင်များ ပေါက်ရောက်သည်။ အပူပိုင်းဇုန်နှင့် အပူလျော့ပိုင်း ဒေသများ၌ ပေါက်ရောက်သော သစ်ခွမျိုးတို့သည် ''စိမ့်ကြီးမှိုင်ကြီး၊ ရိပ်ကြီးတောတောင်၊ နေရောင်မခံ၊ ပန်းပျံ့ပင်ဆင့်၊ မြေနှင့်ရန်ဖက်'' ဟူသော စာဆိုနှင့်အညီ မြေ၌မပေါက်ပဲ များသောအားဖြင့် အရိပ်အာဝါသကောင်းသော သစ်ပင်ကြီးငယ်တို့၏ ပင်လုံးပင်စည်နှင့် အကိုင်းအခက်များ၌ တွယ်ကပ် ပေါက်ရောက်သဖြင့် သစ်ခွ ဟူသော အမည်နှင့်လည်း လိုက်လျောကြပေသည်။ သမပိုင်း ဒေသများတွင်မူ များသောအားဖြင့် သစ်ခွမျိုးတို့သည် ရုက္ခဗေဒအလိုအရ အပူပိုင်းဒေသပေါက် သစ်ခွများနှင့် မျိုးရင်းချင်းတူသော်လည်း မြေ၌ပေါက်ကြသည်။ အပူပိုင်းနှင့် အပူလျော့ပိုင်း ဒေသများတွင်လည်း မြေပေါက်သစ်ခွမျိုး အတော်အတန် တွေ့ရသည်။ မြန်မာနိုင်ငံတွင် ဂမုန်း






ရောင်စုံလိပ်ပြာကလေးများနှယ် အလှကြွယ်သည့် သစ်ခွပန်းများ

(အပေါ်-ဝဲ/ယာ) မိုးလုံးမှိုင်း၊ မောက်ခန်းဝါ။ (အောက်-ဝဲ/ယာ) ပင့်ကူနီသစ်ခွ၊ ယိုးဒယားသစ်ခွပြာ။

(ပမုန်း) ဟု အချို့ခေါ်ဝေါ်ကြသော အပင်အချို့သည် မြေပေါက်သစ်ခွမျိုးဝင်များ ဖြစ်ကြသည်။

ရုက္ခဗေဒအလိုအားဖြင့် ဆိုခဲ့သည့်အတိုင်း ပင်ကပ်သစ်ခွနှင့် မြေပေါက်သစ်ခွမျိုးတို့အပြင် သက်မဲ့ပစ္စည်းများ၌ တွယ်ကပ်ပေါက်ရောက်တတ်သော သစ်ခွမျိုးတို့လည်း ရှိသေးသည်။ ထိုသစ်ခွမျိုးတို့မှာမူ ရုက္ခဗေဒနှင့် စပ်လျဉ်းသော စူးစမ်းလေ့လာမှုပြုရန်မှတပါး ပြောပလောက်အောင် လှပခြင်း အသုံးဝင်ခြင်းစသော ထူးခြားမှုမရှိချေ။ ပင်ကပ်သစ်ခွနှင့် မြေပေါက်သစ်ခွ နှစ်မျိုးနှစ်စားတို့တွင်လည်း မြေပေါက်သစ်ခွမျိုးတို့သည် ပင်ကပ်သစ်ခွမျိုးတို့ကဲ့သို့ အခိုင်လိုက် အပွင့်များစွာပွင့်သော အမျိုးအစား နည်းပါးပြီးလျှင် အပွင့်သုံးပွင့်မှ လေးပွင့်ခန့်သာ ပွင့်တတ်သည်။ အပွင့်နည်းသလောက် အဖူးအပွင့် ပို၍ကြီးမားကြရာ အချို့အပွင့်များသည် လက်ဖက်ရည်ပန်းကန်လုံးခန့်ပမာဏ ရှိကြလေသည်။ ပင်ကပ်နှင့် မြေပေါက်ဟူ၍ ခွဲခြားထားသော်လည်း ရုက္ခဗေဒအမည်ဖြင့် မျိုးခွဲ အမည်တူများရှိသည်။ အနောက်နိုင်ငံများ၌ ကျော်ကြားသော ''ဖိနပ်သစ်ခွ'' အမည်ရှိ အပင်သည် မြေပေါက်သစ်ခွမျိုးဖြစ်၍ ပဖီယိုပီဒီလမ် နှင့် ဆစ်ပရီဒီယမ်မျိုးခွဲများတွင် ပါဝင်လေသည်။ သို့သော် သစ်ခွမျိုးတို့တွင် ပင်ကပ်သစ်ခွမျိုးတို့သည်သာလျှင် အဖိုးတန်၍ အရေးပါကြလေသည်။

အပင်လောကတွင် ပင်ကပ်သစ်ခွတို့၏ ဓလေ့စရိုက်သည် ပို၍စိတ်ဝင်စားဖွယ် ကောင်းသည်။ သစ်ပင် ကြီးငယ်တို့၌ တွယ်ကပ်ပေါက်ရောက်ကြသော်လည်း ယင်းတို့သည် မိမိတို့၏ စားရေရိက္ခာအတွက် ယင်းတို့ မှီခိုရာ သစ်ပင်ကြီးငယ်တို့မှ ရယူခြင်း မပြုကြပေ။ အရွက်များရှိ အစိမ်းရောင် ဒြပ်သည် လေထဲ၌ရှိသော ကာဗွန်ဒိုင်အောက်ဆိုက်ဓာတ်ကို နေရောင်ခြည်ဖြင့် ကာဗိုဟိုက်ဒရိတ်သကြား ချက်လုပ်သည်။ အခြား အာဟာရဓာတ်များကို သစ်ခေါက်၊ သစ်သား၊ အရွက် စသည်ကို ဆွေးမြေ့စေသော မှိုများမှ မိမိတို့ချက်လုပ်သော ကာဗိုဟိုက်ဒရိတ်သကြားနှင့် လဲလှယ် ယူပေသည်။ သဘာဝအလျောက် သစ်ခွအစေ့ငယ်များ ပေါက်ရောက်ကြီးထွားရာတွင်မူ ကာဗိုဟိုက်ဒရိတ် သကြားများကို မှိုများထံမှ ရယူလေသည်။



မေမြို့တွင်တွေ့ရလေ့ရှိသော ဖနပ်သစ်ခွပန်း

သစ်ခွပန်းပွင့်တို့၏ အနေအထားသည် ထူးခြား၍ မျိုးစပ်ယှက်ပေးသော လိပ်ပြာ၊ ပိတုန်း စသည်တို့အား အကူအညီဖြစ်စေသည်။ အပွင့်တို့သည် ဝတ်ဆံ အဖို၊ အမ နှစ်မျိုးလုံးပါရှိပြီးလျှင် ယေဘုယျအားဖြင့် ပွင့်ဖတ်သုံးခု၊ ပွင့်ချပ်သုံးခု ပါရှိသည်။ ပွင့်ဖတ်တခုသည် အခြားပွင့်ဖတ် ပွင့်ချပ်များ လှပသည်ထက် ပိုမိုလှပထူးခြားသည်။ ပုံပန်းသဏ္ဌာန်တွင်၎င်း၊ အဆင်အသွေးတွင်၎င်း ပို၍ထူးကဲလှပပြီးလျှင် ပန်းပွင့်တခုလုံးတွင် လိပ်ပြာ၊ ပျားကောင်နှင့် ပိတုန်းတို့ကို အဆွဲဆောင်နိုင်ဆုံးသော အစိတ်အပိုင်းဖြစ်သည်။ ထိုပွင့်ဖတ်ကို ''နှုတ်ခမ်း'' ဟုခေါ်သည်။ ထိုနှုတ်ခမ်း၏ ပုံသဏ္ဌာန်သည် တခါတရံ ကြိုးပြားပြားနှင့် တူသည်။ တခါတရံ အိတ်ကလေးနှင့်တူသည်။ တခါတရံ ခွက်ကလေးနှင့်တူသည်။ အာကျယ်၍ အနားတွန့်များလည်း ရှိတတ်လေသည်။

ထိုအပွင့်၌ နားလာသော ပိုးကောင်များကို အပွင့်၏ အတွင်းပိုင်းရှိ ပန်းဝတ်ရည်ရှိရာသို့ ထိုပွင့်ဖတ်က လမ်းညွှန်ပြသကဲ့သို့လည်း ရှိသည်။ ပိုးကောင်ကလေးများသည် ထိုပွင့်ဖတ်၏ အနေအထားအားဖြင့် ပန်းဝတ်ရည်ရှိရာသို့ ဝင်ရောက်ကြလေသည်။ သစ်ခွမျိုးတို့၏ ထူးခြားချက်မှာ ထောင်ပေါင်းများစွာသော ဝတ်မှုန်များပါရှိသည့် ဝတ်မှုန်ဆဲတို့သည် တသီးတခြားစီ မရှိကြပဲ ပူးကပ်သိပ်သည်းစွာ ရှိကြပြီးလျှင် အစုအခဲဖြစ်နေ၍ ယင်းကို ပိုလင်နီးယားဟုခေါ်သည်။ ပိုလင်နီးယားတို့သည် သစ်ခွအမျိုးအစားကို လိုက်၍ သစ်ခွတပွင့်လျှင် နှစ်ခုမှ ရှစ်ခုအထိ ပါရှိတတ်ရာ များသောအားဖြင့် နှစ်ခုပါလေ့ရှိသည်။ ယင်းတို့သည် စေးကပ်ကပ်နေသည်။ သစ်ခွပွင့်တို့၏ သဘာဝအလျောက် တည်ရှိသော အနေအထားကြောင့် ပျား၊ ပိတုန်းနှင့် ပိုးကောင်ငယ်တို့ ဝတ်ရည်သောက်သုံးပြီး၍ ပြန်အထွက်တွင် ပိုလင်နီးယားတို့နှင့် ထိခိုက်မိကာ ယင်းတို့သည် ပိုးကောင်ကလေး

များတွင် ကပ်ပါသွားလေသည်။ ထိုပိုလင်နီးယား ကပ်ပါသွားသော ပိုးကောင်ကလေးများသည် တပွင့်မှ တပွင့်၊ တပင်မှ တပင်သို့ လူးလာ ကူးသန်းကြခြင်းဖြင့် မျိုးစပ်ယှက်ခြင်းကို ဖြစ်ပေါ်စေသည်။ ပိုလင်နီးယား တွင် ဝတ်မှုန်အစုအခဲ ပါဝင်သဖြင့် မျိုးစပ်ယှက်ခြင်း သည် အောင်မြင်သည်သာ ဖြစ်လေသည်။ ယင်းသို့ဖြင့် ပိုးကောင်ကလေးများ၊ လိပ်ပြာ၊ ပျားကောင်၊ ပိတုန်း စသည်တို့သည် အမှတ်မထင် သဘာဝအလျောက် မျိုး စပ်ခြင်းကို ပြုကြသောကြောင့် သဘာဝမျိုးစပ်သစ်ခွ များ ပေါ်ပေါက်ခဲ့လေသည်။ အပူပိုင်းဇုန်ဒေသ သစ်ခွ မျိုးတို့သည် များသောအားဖြင့် သဘာဝ မျိုးစပ်သစ်ခွ များ ဖြစ်ကြသည်။ ပိုးကောင်ကလေးများနှင့် ပျား ကောင်၊ ပိတုန်း စသည်တို့က သဘာဝနည်းဖြင့်မျိုးစပ် ၍ သစ်ခွပန်းမျိုးတို့ ပွားစေသဖြင့်သာ သစ်ခွပန်းမျိုးများ စွာ ပွားများခဲ့သည် မဟုတ်ပေ။ ပန်းဝိဇ္ဇာ၊ ပန်းပါရဂူတို့ ကလည်း သိပ္ပံနည်း အမျိုးမျိုးဖြင့် ကိတ္တိမမျိုးစပ်ခြင်းကို ဆောင်ရွက်ကြလေရာ အလွန်ဆန်းကြယ်လှပသော သစ်ခွ မျိုးစိတ် မျိုးပြားတို့သည် တိုးပွားလာခဲ့လေသည်။

သစ်ခွမျိုးတို့ကို တောင်အမေရိကသစ်ခွမျိုးနှင့် အရှေ့ အိန္ဒိယကျွန်းစုသစ်ခွမျိုးဟူ၍ အုပ်စုနှစ်ခု ခွဲခြားထားကြ သည်။ ပဌမ သစ်ခွမျိုးတို့သည် မြောက် အမေရိက တောင်ပိုင်း နိုင်ငံများနှင့် တောင်အမေရိက နိုင်ငံများ တွင် အလေ့ကျပေါက်သည်။ တောင်အမေရိကအုပ်စု ဝင် ကက်တလီယာမျိုးခွဲမှ သစ်ခွမျိုးတို့သည် လူကြိုက် အများဆုံးနှင့် အဖိုးတန်ဆုံးဖြစ်ကြသည်။ မျိုးစိတ်နှင့် မျိုးပြားလည်း အများဆုံး ဖြစ်သည်။ ထိုသစ်ခွမျိုးတို့ သည် တောင်အမေရိကတိုက် နိုင်ငံများ၌ အများဆုံး ပေါက်သည်။ ထိုပြင် လီလီယာ၊ အွန်ဆစ်ဒီယမ်၊ အိုဒွန် တိုဂလော့ဆမ်၊ မီလတိုးနီးယား အစရှိသော တောင် အမေရိက အုပ်စုဝင် နာမည်ကျော် သစ်ခွ မျိုးခွဲများ လည်း ရှိပေသေးသည်။

အရှေ့အိန္ဒိယ ကျွန်းစု အုပ်စုဝင် သစ်ခွမျိုးတို့သည် အာရှတိုက်တောင်ပိုင်း နိုင်ငံများနှင့် ဩစတြေးလီး ယားတိုက်တွင် ပေါက်ရောက်သည်။ ထိုအုပ်စုထဲတွင် ဒင်ဒရိုဗီယမ်မျိုးခွဲဝင် သစ်ခွတို့သည် အရေးအပါဆုံး ဖြစ်သည်။ ထိုသစ်ခွမျိုးကို အရှေ့အိန္ဒိယကျွန်းစု၊ အာ သံပြည်နယ်၊ မြန်မာနိုင်ငံနှင့် ဩစတြေးလီးယားနိုင်ငံ တို့တွင် တွေ့ရသည်။ ဖေလီနော့ပဆစ် မျိုးခွဲဝင် သစ်ခွ တို့သည် အလွန်လှပ၍ ရှားပါးသဖြင့် အဖိုးတန်သည်။ လှပသော ရောင်စုံငှက်ကလေးများနှင့် သဏ္ဌာန်တူသည့် အမျိုးအစားများလည်းပါရှိသည်။ ဖိလစ်ပိုင်ကျွန်းစု၊ မြန် မာနိုင်ငံနှင့် ယိုးဒယားနိုင်ငံတို့တွင် ပေါက်ရောက်သည်။



သစ်ခွပန်းကို ဤသို့ အလှစိုက်လေ့ရှိကြသည်။

အရှေ့အိန္ဒိယကျွန်းစု သစ်ခွမျိုးဝင် အခြားမျိုးခွဲတို့မှာ ဗန်ဒါ၊ ဆင်ဗစ်ဒီယမ်၊ ဆီလော့ဂျိုနီ၊ ရီနန်းသီရာ စသည်တို့ ဖြစ်ကြလေသည်။

ကမ္ဘာတွင် ထူးဆန်းလှပသော အဖိုးတန်သစ်ခွမျိုးစုံ ရှိသော နိုင်ငံသည် မြောက်အမေရိကတိုက်တောင်ပိုင်း ရှိ မက္ကဆီကိုနိုင်ငံ ဖြစ်သည်။ ထိုနိုင်ငံ၏ တောတောင် သေလာ ရေတံခွန်စိမ့်စမ်းနှင့် လျှိုမြောင် ချောက်ကမ်း ပါးကြီးများတွင် အဖိုးတန်၍ လှပသော သစ်ခွမျိုး၊ ပုံပန်းသဏ္ဌာန် ထူးထွေဆန်းပြားသော သစ်ခွမျိုးတို့ အရောင်အသွေးစုံ၊ မျိုးစိတ်မျိုးပြား အစုံရှိသဖြင့် သစ် ခွပန်းလောကတွင် ထိုနိုင်ငံသည် နာမည်ကြီးလှပေသည်။

အရှေ့နိုင်ငံများတွင် နာမည်ကျော် သစ်ခွပန်းများပေါ် ထွက်ရာ တိုင်းပြည်တို့မှာ အင်ဒိုနီးရှားနှင့် ဖိလစ်ပိုင်နိုင်ငံ တို့ဖြစ်ကြသည်။ အင်ဒိုနီးရှားနိုင်ငံတွင် ဗန်ဒေါင်းညီလာခံ ပြုလုပ်ခဲ့သော ဗန်ဒေါင်းမြို့အနီးရှိ ဗိုဂိုဉယျာဉ်သည် ကမ္ဘာ ကျော်သစ်ခွအဆန်းအပြားများနှင့် သဘာဝသစ်ခွ အလှပ များ ပေါ်ထွက်၍ နာမည်ကျော်ကြားလှပေသည်။ ထို ဉယျာဉ်မှ နှစ်စဉ် သစ်ခွပန်းအဆန်းများကို ကိတ္တိမ မျိုးစပ် ထုတ်လုပ်ခဲ့ရာ ဗန်ဒေါင်းညီလာခံအပြီးတွင်လည်း ဗန် ဒေါင်းသစ်ခွဟူ၍ ထိုဉယျာဉ်မှ မျိုးစပ်ထုတ်လုပ်ခဲ့သည်။ ဖိလစ်ပိုင်နိုင်ငံနှင့် ဟဝိုင်းယန်းကျွန်းစုမှ သစ်ခွဉယျာဉ်တို့ သည်လည်း ဗိုဂိုဉယျာဉ်နည်းတူ ကျော်ကြားလေသည်။

သစ်ခွပန်းများသည် တန်ဖိုးရှိသဖြင့် ကမ္ဘာ့ပန်းလောကတွင် အထူးတလည် စိုက်ပျိုး ပြုစု ကြသည်။ ကမ္ဘာ့နိုင်ငံကြီးများတွင် သစ်ခွပန်းစိုက်ပျိုးရေးကို ငွေအရင်းအနှီး သိန်းသန်းချီ၍ လုပ်ငန်းကြီးတခုအနေဖြင့် လုပ်ကိုင်ကြသည်။ သစ်ခွပန်းအမျိုးအစားအလိုက်၊ ယင်းတို့နှစ်သက်သော ရာသီဥတု၊ အပူအအေး၊ အာဟာရနှင့် ပတ်ဝန်းကျင်မျိုးကို ရရှိလေအောင် ဖန်မှန်အဆောက်အအုံများ၊ အပူငွေ့ပေးထားနိုင်သော အဆောက်အအုံများဖြင့် စံနစ်တကျ စိုက်ပျိုးထားကြသော်ကြောင့် သစ်ခွပန်းများ အစဉ်သဖြင့် ဖူးပွင့်နေသော သစ်ခွဥယျာဉ်ကြီးများကို ဖန်တီးနိုင်ကြသည်။ ထိုကြောင့် ထိုနိုင်ငံကြီးများတွင် မင်းစိုးရာဇာ သဌေးသူကြွယ်အထက်တန်းစားများသည် ပွဲလမ်းသဘင် နေ့ကြီးရက်ကြီးများ၊ အထိမ်းအမှတ်နေ့များ၊ မွေးနေ့များတွင် အဆိုပါသစ်ခွဥယျာဉ်၊ ပန်းခြံ၊ ပန်းဆိုင်များ၌ မိမိတို့ အလိုရှိသော သစ်ခွပန်း သစ်ခွပင်တို့ကို အပွင့်အရောင်နှင့်တကွ ငွေကြိုတင်ပေး၍ မှာထားကြသည်။ အလိုရှိသော နေ့ရက်တွင် မှာထားသည့် သစ်ခွပန်း အရောင်အတိုင်း ရရှိ၍ အဖူးအပွင့်နှင့်တကွ မှန်သေတ္တာတွင်ထည့်ပြီးလျှင် တဦးမှတဦးသို့ လက်ဆောင်ပေးနိုင်ကြလေသည်။

သစ်ခွပန်းစိုက်ပျိုးရာဌာနကြီးများတွင် ခေတ်ခွဲရုံကြီးများ အကြီးအကျယ်ထားရှိပြီးလျှင် နှစ်စဉ် သစ်ခွပန်း အသစ်အဆန်း အလှအပများကို တီထွင်မျိုးစပ်ခြင်းများ ပြုလုပ်၍ ကမ္ဘာသို့ရောင်းချခဲ့ရာ အမေရိကန်ပြည်ထောင်စု၊ ကာလီဖိုးနီးယားပြည်နယ်ရှိ သစ်ခွဥယျာဉ်ကြီးတခုမှာ ၁၉၆၂ ခု နှစ်ထဲတွင် သစ်ခွမျိုးစပ်အဆန်း ၃၀ ကျော် ထုတ်လုပ်နိုင်ခဲ့သည်။ ထိုကဲ့သို့ သစ်ခွစိုက်ပျိုး ပြုစုရေးကို ကြီးကြီးကျယ်ကျယ် ဆောင်ရွက်ကြသည့် နိုင်ငံများမှာ (၁) အမေရိကန် ပြည်ထောင်စု၊ (၂) ဗြိတိန်၊ (၃) ကနေဒါ၊ (၄) အင်္ဂလန်၊ (၅) ဟော်လန် (နယ်သာလန်)၊ (၆) ဗဲလဂျီယမ်၊ (၇) ပြင်သစ်နှင့် (၈) ဂျာမနီတို့ဖြစ်၍ အရှေ့နိုင်ငံများတွင် (၉) အိန္ဒိယ၊ (၁၀) သီဟိုဠ်၊ (၁၁) ယိုးဒယား၊ (၁၂) စင်္ကာပူ၊ (၁၃) အင်ဒိုနီးရှား၊ (၁၄) ဖိလစ်ပိုင်နှင့် (၁၅) ဩစတြေးလီးယားတို့ ဖြစ်ကြလေသည်။

မြန်မာနိုင်ငံအရပ်ရပ် အနယ်နယ်တို့၌ စိမ့်ကြီးမြိုင်ကြီး၊ ရိပ်ကြီး တောတောင်တို့တွင်သာမက လူနှင့်နီးစပ်သော မြေပြန့်ဒေသများ၏ သစ်တောများ၌ပင် သစ်ခွအမျိုးမျိုးတို့ သဘာဝအလျောက် ပေါက်ရောက်ကြသည်ကို တွေ့ရသည်။ သို့သော် ရှမ်းပြည်နယ်၊ ကချင်ပြည်နယ်၊ ချင်းတောင်တန်းဒေသ၊ တနင်္သာရီနှင့် ရခိုင်ရိုးမစသော တောင်ကုန်းဒေသများ၌ ဇာလှန်လှပသော သစ်ခွမျိုးများ အပါအဝင် သစ်ခွမျိုးတို့ကို ပို၍ အများအပြား တွေ့ရသည်။ အထူးသဖြင့် ရှမ်းပြည်နယ်နှင့် ချင်းတွင်း မြစ်ဝှမ်းတို့တွင် သစ်ခွအလွန်ပေါသည်။ စိုစွတ်သော ရာသီဥတုရှိ၍ မြေပြင်အမြင့် ပေ ၄,၂၀၀ မှ ပေ ၅,၀၀၀ ရှိသော တောင်ကုန်းဒေသတို့၌ သစ်ခွများ ပိုမိုဖြစ်ထွန်းလေသည်။ သို့သော် တနေရာ တဒေသတည်းတွင် သစ်ခွမျိုးတို့ အစုံအလင်ပေါက်ခြင်းကိုမူ တွေ့ရခဲပေသည်။ မေမြို့ရုက္ခဗေဒဥယျာဉ်သည် မြန်မာနိုင်ငံတွင် သစ်ခွအစုံဆုံး၊ အများဆုံးဖြစ်သည်။ သစ်တောဌာနခွဲ၏ လက်အောက်ခံဖြစ်သဖြင့် ဌာနဆိုင်ရာ စုဆောင်းခြင်းတို့ကြောင့် မြန်မာနိုင်ငံသစ်ခွမျိုးစုံ၏ စံပြဥယျာဉ်ပမာ ဖြစ်ခဲ့သည်။ ဒုတိယကမ္ဘာစစ်မတိုင်မီက ထိုဥယျာဉ်တွင် မြန်မာသစ်ခွမျိုးစိတ်ပေါင်း ၃၀၀ နီးပါးနှင့် အပင်ပေါင်း ၄,၀၀၀ ကျော် ရှိခဲ့ဘူးလေသည်။ စစ်အတွင်းက စစ်ဘေးဒဏ်ကြောင့် ပျက်စီးခဲ့ရာ ယခုပြန်လည်စုဆောင်း ပြုစုဆဲဖြစ်လေသည်။

မြန်မာနိုင်ငံ အရပ်ရပ်မှ ပေးပို့၍ မေမြို့ ရုက္ခဗေဒ ဥယျာဉ်၌ စုဆောင်းမိသမျှသော သစ်ခွမျိုးခွဲတို့မှာ (၁) ဆင်ဗစ်ဒီယမ်၊ (၂) အေးရီးဒီး၊ (၃) ဒင်ဒရိုဗီယမ်၊ (၄) ဗန်ဒါ၊ (၅) အရွှန်ဒီးနား၊ (၆) ဗာလဗိုဖီလစ်၊ (၇) ကာလန်းသီ၊ (၈) ဆီလော့ဂျီနီ၊ (၉) ဖမီယိုပီဒီလမ်၊ (၁၀) ရီနန်းသီရာ၊ (၁၁) သူနီးယား



မြစ်ဝကျွန်းပေါ် ငွေတူသစ်ခွပန်း

စသည်တို့ ဖြစ်၍ မျိုးစိတ်ပေါင်း ၁၀၀ ကျော်ခန့်ရှိသည်။ ယင်းတို့တွင် မြေပေါက်သစ်ခွမျိုးတို့လည်း ပါဝင်သည်။ မြန်မာနိုင်ငံသို့ လာရောက်၍ သစ်ခွမျိုးတို့ကို လေ့လာ သုတေသန ပြုခဲ့သော အင်္ဂလိပ်လူမျိုး ရုက္ခဗေဒ ပါရဂူကြီး ကင်းဒမ်ဝဒ် ကမူ မြန်မာနိုင်ငံ၌ သစ်ခွမျိုးစိတ်ပေါင်း ၁,၀၀၀ မှ ၁,၅၀၀ အထိရှိ၍ မလ္လာယုကျွန်းဆွယ်တွင် ၇၀၀ ခန့် ရှိသည်ဟု ဆိုလေသည်။

မြန်မာနိုင်ငံတွင် သစ်ခွမျိုးတို့ ပေါလှသော်လည်း သစ်ခွပန်း စိုက်ပျိုးရေးကို လုပ်ငန်းတရပ် အနေဖြင့် စိုက်ပျိုးလုပ်ကိုင်ခြင်း နည်းပါးခဲ့သည်။ များသောအားဖြင့် မြန်မာသစ်ခွတို့သည် တနှစ်တကြိမ်မျှသာ ဖူးပွင့်ကြ၍ ရာသီဥတုနှင့် ရေမြေဒေသရွေးသော သစ်ခွမျိုးတို့သာလျှင် များပြားသဖြင့် ပြုစု စိုက်ပျိုးရသည့် စရိတ်နှင့် မကာမိသည့် အကြောင်းများလည်း ပါဝင်ပေမည်ဟု ယူဆရသည်။ ထို့ပြင် သစ်ခွ အရောင်းအဝယ် မဖွံ့ဖြိုးခြင်းတွင် သစ်ခွမျိုးတို့၏ ရုက္ခဗေဒအမည်တို့ကို သိရှိတတ်ကျွမ်းသူ နည်းခြင်း၊ ပြည်တွင်း အရောင်းအဝယ် မရှိခြင်း၊ စိုက်ပျိုးရေး၌ ကျွမ်းကျင်မှုမရှိခြင်း၊ မျိုးစပ်ခြင်း၌ ကျွမ်းကျင်မှု မရှိခြင်းတို့လည်း ပါဝင်သည်ဟု အချို့က ထင်မြင်ကြသည်။ သို့ရာတွင် မကြာလှသေးသော နှစ်များမှ စတင်၍ မေမြို့ရှိ သစ်တောဌာနခွဲ၏ သစ်ခွဥယျာဉ်နှင့် ရန်ကုန်မြို့မင်္ဂလာဒုံရှိသစ်တောဌာနခွဲ၏ သစ်ခွဥယျာဉ်တို့တွင် သစ်ခွအမျိုးမျိုးတို့ကို စံနစ်တကျ ပြုစု စိုက်ပျိုးကာ နိုင်ငံခြားသို့ တင်ပို့လျက် ရှိကြလေပြီ။



မေမြို့ ပန်းဥယျာဉ်အတွင်းမှ သစ်ခွပန်းအမျိုးမျိုး

ကြော့မော့ လှပယဉ်ကျေးသော သစ်ခွပန်းတို့ကို ခုံမင်မြတ်နိုး တန်ဖိုးထားကြသဖြင့် အမေရိကန် ပြည်ထောင်စုသည် နှစ်စဉ် ဒေါ်လာ သောင်း သိန်းနှင့် ချီ၍ တန်ဖိုးရှိသော သစ်ခွပန်းမျိုးတို့ကို တောင်အမေရိက နိုင်ငံများမှရင်း၊ အရှေ့ အိန္ဒိယကျွန်းစုမှရင်း၊ ဖိလစ်ပိုင်ကျွန်းစုမှရင်း မှာယူတင်သွင်း ရောင်းချသည်။ အချို့ ဥရောပ နိုင်ငံများ၌လည်း ယင်းသို့ပင် နိုင်ငံခြားမှ သစ်ခွမျိုး အဆန်းအပြားတို့ကို တန်ဖိုးငွေ အမြောက်အမြားပေး၍ တင်သွင်းကြသည်။ ယင်းသို့ တန်ဖိုးထား၍ ဈေးကောင်း ရသဖြင့်လည်း သစ်ခွပန်း ရှာဖွေသူတို့သည် တောနက်ရာ လျှိုမြောင် အထပ်ထပ် ကာဆီးရာတို့သို့ ခရီးလမ်း၏ ကြမ်းတမ်းမှုကို ပမာမထား၊ သားရဲတို့၏ ဘေးအန္တရာယ်ကို မမှု၊ အဖျားအနာ ထူပြောမှုကိုလည်း မရှုံ့ပဲ သက်စွန့်ကြိုးပမ်း သစ်ခွအဆန်းကို အရှာထွက်ကြသည်။ ဗော်နီယိုကျွန်းကဲ့သို့ ဒေသမျိုးတွင် သားစားလူရိုင်းတို့၏ ဒေသသို့ပင် ချဉ်းနင်းဝင်ရောက် သစ်ခွရှာခဲ့ကြသည်။ ယင်းသို့ သစ်ခွ ရှာသူများကြောင့် သစ်ခွမျိုး ပြုန်းသွားမည့် အခြေမရောက်စေရန် တောင်အမေရိကတိုက် အချို့ နိုင်ငံများတွင် သစ်ခွပင် ရှာဖွေရေးကို ဥပဒေထုတ်ကာ ပိတ်ပင်ခဲ့ကြရသည်။ မြန်မာနိုင်ငံတွင်လည်း မကြာသေးမီက သစ်ခွစိုက်ပျိုးရေး ခေတ်စားလာရာ သစ်ခွပင် ရှာဖွေသူများသည် သစ်ခွတပင် ရရှိရေးအတွက် သစ်ပင်ကြီးများကို စည်းကမ်းမဲ့ ခုတ်လှဲခြင်း၊ ယင်းတို့ မလိုသော သစ်ခွပင်များကို အရမ်းမဲ့ ဖြုန်းတီးပစ်ခြင်း တို့ဖြင့် သစ်တောများကို ဖျက်ဆီးရာ ရောက်အောင် ပြုကြသောကြောင့် အစိုးရက သစ်ခွပင် ရှာဖွေခြင်းကို အမိန့်ထုတ် တားဆီးခဲ့ရလေသည်။

မြန်မာ အိမ်တိုင်းလိုလို၌ သစ်ခွပင် တအုံစ၊ နှစ်အုံစကို သစ်တုံးတွင် ကပ်၍ အိမ်တံစက်မြိတ်တွင် ဆွဲချိတ်၍ရင်း၊ အိမ်အနီးအပါးရှိ သစ်ပင်တို့၌ ကပ်၍ရင်း စိုက်ပျိုးကြသည်ကို အတွေ့ရများသည်။ အစိုက်များ၊ အသိများကြသော သစ်ခွများမှာ သဇင် (ဗာလဗို ဖီလမ်မျိုး)၊ ကြောင်မြီးတူ (ရင်ကိုစတိုင်လစ်မျိုး)၊ မိုးလုံးပြာ၊ မိုးလုံးမှိုင်း(ဗန်ဒါမျိုး)၊ ရတနာရွှေခက် (ဒင်ဒရိုဗီယမ်မျိုး)၊ ခမောက်ကြိုး (ဒင်ဒရိုဗီယမ်မျိုး)၊ မောက်ခန်းဝါ (ဒင်ဒရို ဗီယမ်မျိုး)၊ ရိုးဆက်ကြီး(ဗန်ဒါမျိုး)၊ ကျားဗဟုန်း(ဂရမ်မက်ကို ဖိုင်လမ်မျိုး)၊ သစ်ခွနီ(ရီနန်းသီရာမျိုး)၊ သစ်ခွနီကလေး (အက်စကို စင်တရမ်မျိုး)၊ ကြက်တူရွေး (အေးရီးဒီးမျိုး)၊ စာကလေး (အေးရီးဒီးမျိုး)၊ ရွှေတူ ငွေတူ(ဒင်ဒရိုဗီယမ်မျိုး)၊ လက်တံရှည်၊ သို့မဟုတ် စလဲထော်(ဒင်ဒရိုဗီယမ်မျိုး) စသည်တို့ ဖြစ်ကြလေသည်။

သစ်ခွမျိုးတို့ကို ဥတက်များ ခွဲထုတ်၍၎င်း၊ အသီးတောင့်မှ အစေ့များကို ပျိုး၍၎င်း စိုက်ကြသည်။ အသီးတောင့်သည် ခြောက်လာသည့်အခါ အလယ်မှ သုံးမြွာင့်ကွဲ၍ ထောင်ပေါင်းများစွာသော အစေ့များ ထွက်ကျသည်။ ထိုအစေ့များသည် အလွန်သေးငယ်သဖြင့် လေထဲတွင် လွင့်ပါနိုင်ရာ ဤနည်းအားဖြင့်လည်း သစ်ခွမျိုး ပြန့်ပွားလေသည်။

များသောအားဖြင့် သစ်ခွတို့သည် သစ်ခွဟူသော အမည်နှင့် လျော်ညီစွာ သစ်ပင်များတွင် တွယ်ကပ် ပေါက်ကြသည်။ ယင်းတို့သည် တိုက်ရိုက် အလင်းရောင်ထက် ပျံ့နှံ့လာသော အလင်းရောင်ကို ကြိုက်နှစ်သက်ကြ၍ တမျိုးနှင့်တမျိုး ကြိုက်နှစ်သက်ပုံ ကွဲပြားသည်။ သစ်ခွနီ၊ ရိုးဆက်ကြီးတို့သည် တိုက်ရိုက် အလင်းရောင်ကို နှစ်သက်ကြ၍ သစ်ပင်ရွက်အုပ် ထိပ်ဖျားဌ် ပေါက်ရောက်ကြသည်။ သရက်၊ သဘောကုက္ကို၊ ကျွန်း၊ အင်၊ သစ်ချ၊ ထင်းရှူး အစရှိသည့် အပင်များဌ် တွယ်ကပ် ပေါက်ရောက်ခြင်း များပြား၍ သစ်ပင်အခေါက် ချောမွေ့ခြင်း၊ ကြမ်းတမ်းခြင်းတို့ဌ်လည်း သစ်ခွတမျိုးနှင့်တမျိုး နှစ်သက်ပုံ မတူချေ။

သစ်ပင်များဌ် တွယ်ကပ်ပေါက်ရောက်ကြသော်လည်း သစ်ခွပင် အများအပြား စိုက်ပျိုးလိုသူတို့အတွက် ပန်းအိုးများဖြင့် ထည့်၍ စိုက်ပျိုးခြင်းသည် ပို၍ အဆင်ပြေသည်။ သစ်ခွပင်တို့သည် အမြစ်ကို လေတိုက်နေမှသာလျှင် ရှင်သန်ကြီးထွား၍ ဖူးပွင့်ကြလေရာ ရေဆင်း ကောင်းပြီးလျှင် အမြစ်များ လေရစေနိုင်ရန် နံဘေးဌ်ပါ အပေါက်ပါသော ပန်းအိုးများဖြင့် စိုက်ပျိုးကြရသည်။ အချို့ စိုက်ပျိုးသူတို့သည် လေဝင်ပေါက် များများပါသော ဝါးခြင်း၊ သစ်သားခြင်း၊ ဝါးဗူးတောင်းများဖြင့် စိုက်ပျိုးကြလေသည်။

ပန်းအိုးထဲဌ် ထည့်၍ စိုက်ပျိုးသည့်အခါ အမြစ်များ အိုးထဲဌ် ချောင်ချောင်ချိချိရှိ၍ လေဝင်နိုင်ရန် အိုးခြမ်းခွဲများ ခံပေးရသည်။ အချို့ကမူ အုတ်ကျိုး အပိုင်းအစများကို ထည့်ပေးကြသည်။ ထို့ပြင် အုန်းဆံများ၊ မီးသွေးများကိုလည်း ထည့်၍ စိုက်ပျိုးကြသေးသည်။ နိုင်ငံခြား သစ်ခွ ဥယျာဉ်များတွင် အော့စမန်ဒါဖန်း ခေါ် ဥရင်ကောက်ပင် တမျိုး၏ အရိုးများကို အများအပြား အသုံးပြုကြ၍ ထရီးဖန်းခေါ် ဥရင်ကောက် သစ်ပင်၏ ပင်စည်ကိုလည်း အသုံးပြုကြလေသည်။

သစ်ခွကို အစေ့ပျိုး စိုက်ခြင်းသည် အထူး လုပ်ငန်းတရပ် ဖြစ်ပေသည်။ ပုလင်းထဲတွင် အေဂါခေါ် ကျောက်ကြော တမျိုး၊ သကြား၊ နိုက်တြိုဂျင်၊ ဖော့စဖောရပ်၊ ပိုတက်စီယမ်၊ သံ အစရှိသော အာဟာရ ဓာတ်များကို အချိုးကျထည့်၍ စိုက်ပျိုးကြရသည်။ ထိုသို့ စိုက်ပျိုးခြင်းကို မှို အစရှိသော ဖျက်စီးတတ်သော သဘောရှိသည့် အပင်မျိုး ပုလင်းထဲ မဝင်ရန် အထူး ဓာတ်ခွဲခန်းများဌ် ဆောင်ရွက်ရပြီးလျှင် ပေါက်ရောက်လာသော အပင်ငယ်များ ကြီးထွားလာသည်နှင့် အမျှ အခြား ပုလင်းများထဲသို့ ပြောင်းရွှေ့စိုက်ပျိုးခြင်းကို ပြုကြရလေသည်။

သဇင်ပန်းနှင့် အချို့ သစ်ခွမျိုး အနည်းငယ်မှ လွဲလျှင် မြန်မာ သစ်ခွတို့သည် များသောအားဖြင့် မတ်လ၊ ဧပြီလ၊ မေလ တည်းဟူသော မိုးမကျမီ အချိန်များတွင် ဖူးပွင့်ကြသည်။ သို့သော် ဇူလိုင်၊ ဩဂုတ်၊ စက်တင်ဘာလများသည်မူ ကြောင်မြီးတုနှင့် စလဲထော် ဟုလည်း ခေါ်ကြသော သစ်ခွမျိုးတို့ "လှိုင်" သော အချိန်ဖြစ်သည်။ နိုင်ငံခြား မျိုးစပ် သစ်ခွတို့ကား ပြုစုပျိုးထောင်မှုကို လိုက်၍ အချိန်မရွေး ဖူးပွင့်ကြသည်။ သစ်ခွတို့သည် နုနယ်လှပစွာ ဖူးပွင့်ကြသော်လည်း အပွင့်များသည် မနွမ်းလွယ်၊ မကြွေလွယ်ပဲ ရက် ကြာရှည်ခံလေသည်။ သစ်ခွပန်း တအိုးတဖွဲ့ ဖူးပွင့်လျှင် ပင် ကြည့်မဝ၊ ရှုမဆုံး ရှိကြရပေရာ စိမ့်ကြီး မြိုင်ကြီးများ အတွင်းဌ် သစ်ခွပန်းတို့ ဖူးပွင့်ချိန်သည် ရှုမငြီး အံ့မခန်းစရာ ရှိပေလိမ့်မည်။

သစ်ခွပင် တို့ကို အပွင့် အလို့ငှာ နိုင်ငံခြား များဌ် ကြီးကြီးကျယ်ကျယ် စိုက်ပျိုးလုပ်ကိုင်ကြသည်။ သစ်ခွမျိုးတို့မှ ရောင်းဝယ် ဖောက်ကားနိုင်သော ပစ္စည်း ထုတ်လုပ်နိုင်သည့် အပင်မျိုး ရှားပါးသည်။ ဗနီလာ သစ်ခွမျိုးခွဲဝင်ဖြစ်သော ဗနီလာပင်မှ ဗနီလာ အမွှေးရည်သည် ထိုသစ်ခွပင်၏ အသီးတောင့်မှ ထုတ်လုပ်ရရှိ၍ ရောင်းဝယ် ဖောက်ကားနိုင်သော ကုန်ပစ္စည်းတရပ်ဖြစ်သည်။ (ဗနီလာ—ရှု။) သစ်ခွပင်မှ ထုတ်လုပ်ရရှိသော အခြားကုန်ပစ္စည်းတမျိုးမှာ ဆာလက်ခေါ် ကော်မှုန့်တမျိုး ဖြစ်သည်။ ထိုကော်မှုန့်သည် တောင်အမေရိက သစ်ခွအုပ်စုထဲမှ အော်ကစ္စ မျိုးခွဲဝင် သစ်ခွများ၊ အရှေ့ အိန္ဒိယကျွန်းစု အုပ်စုထဲမှ ယူလိုဖီးယားမျိုးခွဲဝင်သစ်ခွများ၏ အမြစ်ဥတက်များကိုအခြောက်လှန်းပြီးလျှင် အမှုန့်ပြုထားခြင်း ဖြစ်သည်။ ထိုအမှုန့်သည်ကော်မှုန့်၊ ပီလောပီနံမှုန့်တို့ ကဲ့သို့ဖြစ်၍ အစားအစာများဌ်၎င်း၊ ဆေးဝါးဖော်စပ်ရာဌ်၎င်း ထည့်သွင်းအသုံးပြုကြလေသည်။

**သစ္စာပန်း။** ။ပန်းခြံများ၊ ပန်းဥယျာဉ်များဌ် အလှစိုက်ပျိုးရန်ဖြစ်စေ၊ ပန်းအိုးပန်းစိုက်များဌ် ပန်းအလှထိုးရန်ဖြစ်စေ၊ ပန်းပြပွဲများဌ် ပန်းအလှပြရန်ဖြစ်စေ အသုံးများသော ပန်းတမျိုးမှာ အသွေးအရောင်စုံရှိ၍ ကြကြရှရှ အဖူးအပွင့်တို့ဖြင့် ကျော့ရှင်းလှပသော သစ္စာပန်းများ ဖြစ်ကြသည်။

သစ္စာပန်းတို့သည် လီလီပန်းမျိုးနှင့်လည်း ဆင်ဆင်တူ၍ အိုင်ရစ်ပန်းမျိုးတွင် ပါဝင်ပြီးလျှင် မျိုးရင်း၏ အမည်မှာ အိုင်ရီဒေစီအီး ဖြစ်သည်။ သစ္စာပန်းပင်တို့သည် သန်မာထွားကြိုင်းစွာ ပေါက်ရောက်သည့်အခါ အမြင့် လေးပေမှ

ငါးပေ အထိ ရှိတတ်သည်။ ပင်စည်သည် သေးသွယ် ရှည်လျား၍ အသားများသော ပင်စည်မျိုးဖြစ်သည်။ ခါးရှည်၏ ပုံသဏ္ဌာန်နှင့်တူ၍ အဖျားချွန်ပြီးလျှင် ရှည်လျားသည့် အရွက်များသည် အပင်ရင်း၌ ဖွင့်ချည်ပိတ်ချည်ပြုနိုင်သော ယပ်တောင်ကဲ့သို့ တခုနှင့်တခု ထပ်၍ ထွက်သည်။ ထိုကြောင့် ခါးရှည်ပုံသဏ္ဌာန်တူသော အရွက်များရှိသည့် သစ္စာပန်းကို ဂလက်ဒီယိုလပ်ဟု အနောက်နိုင်ငံ များ၌ ခေါ်ကြခြင်းမှာ ခါးရှည်ကို ဂလက်ဒီယပ်ဟု လက်တင်ဘာသာဖြင့် ခေါ်ဝေါ်ခြင်းကို အစွဲပြု၍ ဖြစ်သည်။ ထိုပန်းမျိုး၏ ရုက္ခဗေဒအမည်သည်လည်း ဂလက်ဒီယိုလပ်ပင် ဖြစ်လေသည်။

အရွက်ရှည်ရှည်ချွန်ချွန်များ အလယ်မှ သေးသွယ်ရှည်လျား၍ များသောအားဖြင့် မားမားမတ်သော ပွင့်တံများ ထွက်လာပြီးလျှင် ပွင့်တံအဖျားတွင် ထိပ်ချွန်သော ပန်းခိုင်မျိုး ပွင့်သည်။ ပန်းပွင့်များသည် ပွင့်တံ၏ တဖက်ဆယ်သပ်၌ အပွင့်ချင်း လွှဲထွက်ကာ ဆင့်ရရင့် လှပစွာ ဖူးပွင့်ကြသည်။ အောက်ဖက်မှ အပွင့်များသည် ဦးစွာ ပွင့်၍ အပေါ်ပိုင်းမှ အဖူးချွန်ချွန်များသည် တခုပြီးတခု ပွင့်လိုက်လာကြသည်။ အောက်ဖက်မှ အဖူးများ ပွင့်အာစပြုလျှင်ပင် ပန်းခိုင်များကို ခူးဖြတ်လိုက်သည့် တိုင်အောင် အပွင့်များသည် အဖူးများ ကုန်လုနီးသည့်တိုင်အောင် တပွင့်ပြီးတပွင့် ပွင့်ကြသည်။ အပွင့်၏ ပုံသဏ္ဌာန်သည် အော်လံပုံသဏ္ဌာန်ကဲ့သို့ အဝကား၍ ပွင့်ဖတ်တို့သည် အနားညီမဟုတ်ချေ။ ပွင့်ဖတ်ကလေးများသည် ပိုးသားကဲ့သို့ ချောမွတ်ကာ တောင့်တောင့်ကလေး ဖြစ်သည်။ သစ္စာပန်းသည် သင်းပျံ့မွှေးကြိုင်သော ယနံ့မရှိပေ။

သစ္စာပန်းမျိုးတို့၏ မူလ ပေါက်ရောက်ရာ ဒေသသည် တောင်အာဖရိကတိုက်ဖြစ်သည်။ ယင်းမှတဆင့် အာဖရိကတိုက် အလယ်ပိုင်း၊ ဥရောပတိုက် တောင်ပိုင်း၊အလယ်ပိုင်း၊ မြောက်ပိုင်း၊ အမေရိကတိုက်နှင့် အာရှတိုက်သို့တိုင်အောင် မျိုးပျံ့နှံ့ခဲ့သည်။ အချို့က တူရကီနိုင်ငံမှ သစ္စာပန်းမျိုးအချို့သည် ၁၅၉၆ ခုနှစ်တွင် ဥရောပသို့ ရောက်ရှိခဲ့သည်ဟု ဆိုကြသည်။

မူလက သစ္စာပန်းမျိုးတို့သည် မျိုးစိတ်အားဖြင့် မများလှချေ။ ဥရောပ ပန်းပါရဂူများ အထူးသဖြင့် ဒပ်ချလူမျိုး ပန်း ပါရဂူများသည် အမျိုးမျိုးအဖုံဖုံ မျိုးစပ်ခဲ့ကြသဖြင့် ယခုအခါ သစ္စာပန်းမျိုးစိတ်ပေါင်း ၂၀၀ ကျော်ခန့် ရှိလေပြီ။ မျိုးစပ် သစ္စာပန်းမျိုးတို့သည် မူလ သစ္စာပန်းမျိုးတို့ထက်ပင် အဆင်အသွေး ပိုမိုထူးကဲလှပသဖြင့် မူလ သစ္စာပန်းမျိုးတို့မှာ ရုက္ခဗေဒ ဉယျာဉ်များမှလွဲလျှင် အတွေ့ရအလွန်နည်းနေပေသည်။

သစ္စာပန်းကို မျိုးစပ်ရခြင်းသည် မလွယ်ကူ လှချေ။ ဖူးဆက်ကူးခြင်းနှင့် အစေ့များဖြင့်မျိုးစပ်ခြင်းသာပြုလုပ်နိုင်သဖြင့် သုံးနှစ်ခန့်ကြာမှသာလျှင် မျိုးစပ်ပင်မှ စတင်ဖူးပွင့်သည်။ထိုပြင် အလိုရှိသော အဆင်အသွေးမျိုးအတိုင်းလည်း ဖြစ်ချင်မှ ဖြစ်ပေသည်။

သို့တစေ၊ ပန်းပါရဂူများ၏ လုံ့လဝိရိယနှင့် ဇွဲသတ္တိတို့ကြောင့် အရောင်အသွေး အဆင်အသွင် ထူးခြား စုံလင်သော သစ္စာပန်းမျိုး များစွာပေါ်ထွန်းခဲ့ရာ သစ္စာပန်းရောင်စုံတို့ ဖူးပွင့်နေပုံသည် အရောင်အသွေး ခြယ်လှယ်မှု၌ ကျွမ်းကျင်သော ပန်းချီကျော်တဦးက အရောင်အသွေး ကျကျ ပန်းချီစုတ်ချက် ကစားထားဘိသကဲ့သို့ ကြည့်မဝရှုမငြီးစရာ ဖြစ်ပါပေသည်။

ဟော်လန် သစ္စာပန်းကြီးမျိုးဟု ခေါ်ကြသော သစ္စာပန်းမျိုးသည် ချိုင်းစီ အမျိုးအစားဟု ခေါ်သော မျိုးစပ်သစ္စာပန်းမျိုးတွင် ပါဝင်သည်။သစ္စာပန်း အပုမျိုး၊ အရှည်မျိုး၊ အလတ်စားမျိုးဟူ၍ ရှိသည့်အနက် ထိုသစ္စာပန်းကြီးမျိုးသည် အပုမျိုးနှင့် အရှည်မျိုးကို စပ်၍ရသော မျိုးစိတ်တခု ဖြစ်သည်။ အပွင့်ကြီးများ ထူးကဲ ကြီးမားကြရာ အချင်း ခုနစ်လက်မမှ ကိုးလက်မအထိ ရှိသည်။ အရောင်အသွေး အလွန်စုံသော အမျိုးအစားလည်း ဖြစ်ရာ အဖြူရောင်မှ အစပြု၍ ပန်းနု၊ ပန်းရင့်၊ခရမ်း၊မရမ်းအသွေး အရောင် အမျိုးမျိုးအပြင် အနီရောင် အနု အရင့် အစုံစုံ အဝါသွေး အနုအရင့် အဖုံဖုံတို့အပြင် ချစ်စဖွယ် အသွေး အရောင်အဆန်းအပြားတို့ကလည်း အံ့မခန်းလောက်စဖွယ် စုံလင်လှပေသည်။ အချို့သည် အပွင့်ရောင် တပိန်းတည်း မဟုတ်ပဲ အစက်အပြောက်၊ အကွက်အကြားတို့ဖြင့် တမျိုးတဖုံ ဆန်းသစ်လှပကြလေသည်။ နောက်ဆုံးပေါ် ထိုသစ္စာပန်းမျိုးတမျိုးမှာတောက်ပသော ကြည်ပြာရောင်နုကလေးတွင် လှပသော အမည်းပျောက်ကလေးများ ကြွရှိစွာပေါ်နေသော ဟော်လန်သစ္စာပန်း မျိုးပြားတမျိုးပေတည်း။

အပုမျိုး၊အရှည်မျိုးနှင့် အလတ်စားမျိုးတို့တွင်မူ ဟော်လန် သစ္စာပန်းမျိုးကဲ့သို့ မျိုးစိတ် မျိုးပြား မများလှချေ။ အသွေးအရောင်လည်း မများပြားလှသော်လည်း အရောင်မျိုးစုံ ၂၀ ခန့်ရှိသည်။

ဟော်လန် သစ္စာပန်းမျိုးသည် မြန်မာနိုင်ငံတွင် မဖြစ်ထွန်းလှချေ။ မြန်မာနိုင်ငံတွင် အရောင်းအဝယ်ဖြစ်သော အမျိုးအစားမှာ အလတ်စား သစ္စာပန်းမျိုး ဖြစ်သည်။ သစ္စာပန်းမျိုးတို့သည် ပဌမ ကမ္ဘာစစ်ပြီး ကာလခန့်ကမှ ကမ္ဘာ အရပ်ရပ်သို့ ပျံ့နှံ့ခဲ့သည်။ ယင်းခေတ်မတိုင်မီက ဟော်လန်၊ အင်္ဂလန် စသော ဥရောပ နိုင်ငံများ၌သာ အများအပြား စိုက်ပျိုးကြသည်။ မြန်မာနိုင်ငံသို့ ၁၉၂၅ ခုနှစ်ခန့်က ထိုပန်းမျိုး ရောက်ရှိလာရာ မေမြို့ ရုက္ခဗေဒ ဉယျာဉ်နှင့် ဘုရင်ခံအိမ်တော်၌သာ စတင်စိုက်ပျိုးခဲ့သည်။

၁၈၂၇ ခုနှစ် နောက်ပိုင်းမှသာ အပြင်လူများလည်း စမ်းသပ် စိုက်ပျိုးလာကြသည်။

မေမြို့၊ ကလော၊ တောင်ကြီးစသော မြို့များနှင့် ဆင်ခြေဖုံး ဒေသများတွင် ဒုတိယကမ္ဘာစစ်ကြီးမတိုင်မီ ခေတ်ကပင် သစ္စာပန်းကို စိုက်ပျိုး ရောင်းဝယ်လာကြသည်။ အခြားမြို့ရွာများတွင် လွတ်လပ်ရေး ရပြီးနောက်တွင်မှ စိုက်ပျိုးလာကြသည်။ အထူးသဖြင့် ရန်ကုန်ဆင်ခြေဖုံး ဒေသများတွင် စိုက်ပျိုးသူများ များပြားလေသည်။

သစ္စာပန်းများသည် မေမြို့နှင့် ရှမ်းပြည် မြောက်ပိုင်း၊ တောင်ပိုင်းတို့တွင် မတ်လလောက်မှ စပြီး ဖူးပွင့်ကြရာ ဇူလိုင်လကုန်ခန့်အထိ အရောင်းအဝယ် လိုင်သည်။ မြန်မာနိုင်ငံအောက်ပိုင်းမြို့များတွင် မိုးရာသီကျမှစိုက်ပျိုးကြသည်။ အနောက်နိုင်ငံများ၌ နွေကူးရာသီတွင် စတင်စိုက်ပျိုးကြလေသည်။

သစ္စာပန်းပင်သည် ကွမ်းခေါ် ဥတက်မှ အပင်ပေါက်သည်။ ဥတက်ကောင်းများမှ ဥတက် အသစ်များ နှစ်စဉ်ပွားသည်။ ပန်းပွင့်ကျသောရာသီတွင် ဥတက်များကို မြေမှဖော်ထုတ်၍ ခြောက်သွေ့သော နေရာတွင် သိမ်းထားရသည်။ သို့မှသာ ဥတက်များ အပျက်အစီး နည်းသည်။ အနောက် နိုင်ငံများတွင် ဆောင်းကူး ရာသီတွင် ဥတက်များကို တူးဖော် သိမ်းထား၍ နွေကူးရာသီတွင် ပြန်စိုက်ကြသည်။

သစ္စာပန်းပင်တို့သည် ရေကောင်းစွာရရှိ၍ မြေဩဇာကောင်းသော မြေပျော့မျိုး၌ ဖြစ်ထွန်းသည်။ မြေဆွေးနှင့် နောက်ချေးမြေမျိုးကို နှစ်သက်သည်။ မြေများ ပြုပြင်ထားပြီးသော စိုက်ခင်းမြောင်းဘောင်မို့မို့တွင် ဥတက်တခုလျှင် ခြောက်လက်မခန့်ခွာလျက် ကျင်းတိမ်တိမ် တူး၍ စိုက်ရသည်။ ဟော်လန်သစ္စာပန်းကြီးမျိုးသည် ပန်းတခိုင်လျှင် ၁၀ ပွင့်မှ အပွင့် ၂၀ နီးနီး ပါရှိ၍ အပင်၌ မခူးပဲထားလျှင် ၁၅ ရက်ကျော်ခန့် ခံသည်။ သို့သော်ဥတက်များသည် အပျက်အစီး များ၍ အသစ် ပွားသော ဥတက်များကလည်း သုံးနှစ်လေးနှစ်နေမှ ပွင့်သဖြင့် စီးပွားရေးအတွက် စိုက်ပျိုးသူများအဖို့ တွက်သားမကိုက်ချေ။

**သစ်စေး။** ။သစ်စေးသည် သစ်ပင်၏ အခေါက်နှင့်အသားကြားထဲမှထွက်သော အစေးဖြစ်သည်။ အချို့ အပင်များ၏ အခေါက်ကို ခြစ်လိုက်လျှင် အစေး ထွက်လာသည်။ အချို့အပင်များမှာမူ အခေါက်ကို ထစ်ပေးမှ အစေးထွက်လာသည်။ မည်သို့ပင်ဖြစ်စေ အခေါက်ကို စံနစ်တကျ ထစ်ပေးခြင်း၊ ခြစ်ပေးခြင်း၊ ထွင်းပေးခြင်းသည် သစ်စေးကို တိုးပွားစေလေသည်။

သစ်စေးကို အပင်အမျိုးမျိုးမှ ရရှိသည်။ ထင်းရှူးပင်အမျိုးမျိုးမှလည်း ရရှိသည်။ မြန်မာနိုင်ငံတွင် သစ်စေးထုတ်လုပ်ရရှိသောအပင်ကို သစ်စေးပင်ဟု ခေါ်လေသည်။

အခေါက်ကို ထစ်လိုက်သဖြင့် ထွက်လာသော အစေးသည် နို့ရည်ကဲ့သို့ ထွက်သော်လည်း လေနှင့် ထိပြီးသည့်နောက်တွင် အစေးနှင့် ရောနှော ပါဝင်သော ဆီအနည်းအများကို လိုက်၍ အချို့သည် ပျစ်ခဲ့ခဲ့ဖြစ်သွားသည်။ အချို့သည် ခဲသွားသည်။ သစ်စေး၌ ဖွဲ့စည်း ပါဝင်သော အခြေခံ အရာဝတ္ထုတို့အနက် ထူးခြားသော အရာဝတ္ထု နှစ်မျိုးတို့မှာ ရက်ဇင်နှင့် ရက်ဇင်အက်ဆစ်တို့ ဖြစ်သည်။ ဒမားဟု ခေါ်သော သစ်စေးမျိုးကဲ့သို့ အချို့သစ်စေးတို့တွင် ရက်ဇင် ၉၀ ရာခိုင်နှုန်းပါဝင်၍ အက်ဆစ် ၁၀ ရာခိုင်နှုန်း ပါသည်။ အချို့ သစ်စေးများတွင်မူ အက်ဆစ် ၉၀ ရာခိုင်နှုန်း ပါဝင်၍ ရက်ဇင် ၁၀ ရာခိုင်နှုန်းခန့်သာ ပါဝင်လေသည်။

ကုန်သွယ် စီးပွားရေးလောကတွင် သစ်စေးနှင့် ကော်စေးကို သတ်သတ်မှတ်မှတ်ခွဲခြားထားခြင်းမရှိချေ။ သစ်စေးကို ကော်စေးအဖြစ်၎င်း၊ ကော်စေးကို သစ်စေးအဖြစ်၎င်း ရောင်းဝယ် ဖောက်ကားမှုလည်း ပြုကြသည်။ သို့သော် သဘာဝအားဖြင့် သစ်စေးနှင့် ကော်စေးတို့သည် မတူချေ။ ခြားနားချက်မှာ ကော်စေးသည် ကာဗိုဟိုက်ဒရိတ်ခေတ်ပစ္စည်းမျိုးဖြစ်သော ကော်မှုန့်နှင့် ပို၍ နီးစပ်သည်။ သစ်စေးသည် တာပင်းကဲ့သို့ ဆီပါသောခေတ်ပစ္စည်းမျိုးတို့နှင့် ပို၍ နီးစပ်သည်။ ကော်စေးကို ရေဖြင့်ဖျော်၍ ပျော်သော်လည်း သစ်စေးကို ရေဖြင့် ဖျော်မရချေ။ အယ်လကိုဟော (အရက်) စသော ဩဂဲနစ် အဖျော်ပစ္စည်းများဖြင့်သာ သစ်စေးကို ပျော်အောင် ပြုလုပ်ရသည်။ သစ်စေးကို မီးရှို့ကြည့်လျှင် ပျော့၍ ပျော်လာပြီးနောက် မီးတောက်သည်။ အနံ့လည်းသင်းသင်းထွက်သည်။ ကော်စေးမှာမူ မီးကျွမ်း၍ မည်းသွားပြီးလျှင်သကြားတူးသည့်အနံ့မျိုးထွက်လေသည်။

သစ်စေးကို အရောင်တင်ဆီ လုပ်ငန်း၊ ခြယ်ဆေး လုပ်ငန်း၊ အမွှေးဆီ လုပ်ငန်းတို့၌ အများဆုံး အသုံးပြုကြ၍ ဘယဆေး ပစ္စည်းတရပ် အနေဖြင့်လည်း အသုံးချခဲ့ကြသည်။ သစ်စေးကို ရှေးပဝေဏီ ခေတ်ကပင် အသုံးပြုခဲ့ကြကြောင်း အထောက်အထားများ တွေ့ရှိရသည်။ ရှေးခေတ် အီဂျစ်လူမျိုးတို့သည် လူသေအလောင်းခြောက်များကို ကြာရှည် ခံအောင် ဆေးစိမ်ရာ၌၎င်း၊ ထိုအလောင်းခြောက်များ ထည့်သည့် ခေါင်းများကို အရောင်တင်ဆီ သုတ်လိမ်းရာ၌၎င်း၊ ဘာသာရေး အခမ်းအနားများ၌၎င်း သစ်စေးကို အသုံးပြုခဲ့ကြသည်။ သစ်စေးကို ဘီသွာဆီနှင့် ရော၍ အရောင်တင်ဆေး ပြုလုပ် သုံးစွဲခြင်းသည် ခရစ်ပေါ် ပြီးနောက်တွင်မှ အသုံး များလာသည်။ ၁၁ ရာစုနှစ်နှင့် ၁၇ ရာစုနှစ် အတွင်းတွင် သစ်စေးအမျိုးမျိုး ပေါ်ထွက်ခဲ့

သည်။ ဣတလီမှ တရော ပြုလုပ်သူတို့သည် နဂါးသွေးဟု ခေါ်သော သစ်စေးတမျိုးကို တရော အရောင်တင်ရာတွင် အသုံးပြုကြသည်။ သစ်စေးနှင့် ကော်စေး အမျိုးမျိုးကို ဘာယဆေးဖက်ပစ္စည်း အဖြစ်ဖြင့် ရှေးကပင် အသုံးအစွဲ ပြုခဲ့ကြလေသည်။

တဆဲ့ရှစ်ရာစုနှစ်တွင် အရှေ့နိုင်ငံထွက် ယွန်းထည်ပစ္စည်းများကို လူသိများလာရာ အရောင်တင်ခြင်း၊ ခြယ်ခြင်းကို ပိုမို ကောင်းမွန်စွာ လုပ်ကိုင် နိုင်မည့် နည်းလမ်းများကိုလည်း စူးစမ်း လေ့လာ စမ်းသပ်လာကြသည်။ ဤတွင် အိန္ဒိယမှထွက်သော သစ်စေးတမျိုးဖြစ်သည့် ချိပ်ကို အရောင်တင်ခြင်း၊ ဆေးသုတ်ခြင်းတို့၌ စိတ်တိုင်းကျ ဖြစ်နိုင်အောင် အသုံးပြုနိုင်ကြောင်း တွေ့ရှိလာကြသည်။ ထိုပြင် ဆန္ဒရက်နှင့် မက်စတစ် သစ်စေးတို့ကိုလည်း အရောင်တင်ဆေးများတွင် အသုံးပြုလာကြသည်။ အင်္ဂလန်ပြည်နှင့် ပြင်သစ် နိုင်ငံတို့တွင် အရောင်တင်ဆီ ကုမ္ပဏီကြီးများသည် ၁၈ ရာစုနှစ်တွင် ပေါ်ပေါက်ခဲ့လေသည်။ ၁၉ ရာစုနှစ်တွင် အာဖရိကတိုက်သို့ လမ်းပွင့်သောအခါ ကိုပယ်ဟု ခေါ်သော သစ်စေးမျိုး ရရှိသဖြင့်၎င်း၊ အရှေ့အိန္ဒိယကျွန်းစုမှ သစ်စေးအမျိုးမျိုး ရရှိသဖြင့်၎င်း အရောင်တင်ဆီ လုပ်ငန်းသည် ပိုမို တိုးတက် ကြီးကျယ်လာလေသည်။

သစ်စေးအမျိုးမျိုးရှိသည့်အနက် ရိုဇင်(ထင်းရှူးစေး)သည် အရေးပါ အရာရောက်ဆုံးသော သစ်စေးတမျိုး ဖြစ်သည်။ တရောထိုးတံမှ မြင်းမြီးကို ပွတ်ရန် အသုံးပြုသော ပယင်းရောင်အဆီတုံးသည် ရိုဇင်တမျိုးပေတည်း။ ရိုဇင်ကို ထင်းရှူးပင် အမျိုးမျိုးမှ ထုတ်ယူ ရရှိနိုင်သည်။ ထင်းရှူးပင်၏ အခေါက်ကို ထစ်လိုက်၍ စီးထွက်ကျလာသော သစ်ဆီတွင် ရိုဇင် ၇၀ ရာခိုင်နှုန်း၊ ဆီ ၂၀ ရာခိုင်နှုန်းနှင့် အခြားရေနှင့် အညစ်အကြေး ၁၀ ရာခိုင်နှုန်း ပါရှိသည်။ ယင်းတို့အနက် ရိုဇင်သည်သာ အသုံးဝင် အဖိုးတန်သည် မဟုတ်ပေ။ ဆီသည်လည်း တာရပင်ဆီဖြစ်၍ အရေးပါ အသုံးဝင်သည်။ သာမန် အချိန်အခါမျိုးတွင် ကမ္ဘာသုံး ရိုဇင်သည် တနှစ်လျှင် တန်ချိန် ၆၀၀,၀၀၀ ရှိ၍ တာရပင်ဆီ ဂါလံ ၄၂,၀၀၀,၀၀၀ ကို သုံးစွဲကြသည်။ ယင်းတို့သည် အမေရိကန် ပြည်ထောင်စုမှ ၆၇ ရာခိုင်နှုန်းထွက်၍ ပြင်သစ်မှ ၂၀ ရာခိုင်နှုန်း၊ စပိန်နှင့် ပေါ်တူဂယ်မှ ၇ ရာခိုင်နှုန်း ထွက်ရှိ၍ ကျန်ရာခိုင်နှုန်းသည် ဂရိ၊ မက္ကဆီကိုနှင့် အိန္ဒိယတို့မှ ထွက်လေသည်။ ရိုဇင်ထုတ်ယူသော အချို့ ထင်းရှူးမျိုးတို့၏ သစ်ကိုလည်း အသုံးချရသဖြင့် သစ်လည်းရ အစေးလည်းရအောင် အနောက်နိုင်ငံကြီးများတွင် ရိုဇင်ထုတ်ယူခြင်းကို စံနစ်တကျ ဆောင်ရွက်ကြသည့်ပြင် ထိုသစ်တောများမပြုန်းရအောင်လည်း ထိန်းသိမ်း စောင့်ရှောက်ကြလေသည်။

အခြားသစ်စေးများသည် များသောအားဖြင့် အပူပိုင်းဒေသ သစ်တောများမှ ထွက်သည်။ ကိုပယ်ဟု ခေါ်သော သစ်စေးအမျိုးမျိုးရှိရာ ဗရာဇီစသောတောင်အမေရိကတိုက် နိုင်ငံများမှလည်း ထွက်သည်။အာဖရိကတိုက် ဇိုင်ယာနိုင်ငံ (ယခင် ဗဲလဂျီယန်ကွန်ဂို)မှလည်း ထွက်သည်။ ဆူမတြား၊ ဂျားဗား၊ ဗော်နီယို၊ စဲလဗီး၊ ဖိလစ်ပိုင်စသော အရှေ့အိန္ဒိယကျွန်းစုမှလည်း ထွက်သည်။ တောင်အမေရိကမှ ကိုပယ်သစ်စေး ထွက်သော ဟိုင်မီနာ မျိုးခွဲဝင် အပင်များနှင့် အာဖရိကတိုက်မှ ကိုပယ် ရရှိသော ထရက်ကီလိုဗီယမ် မျိုးခွဲဝင် အပင်များသည် မျိုးချင်း နီးစပ်သည်။ အရှေ့ အိန္ဒိယကျွန်းစုမှ ကိုပယ်သစ်စေး ထွက်သော အပင်မျိုးတို့မှာမူ အဂ္ဂါသစ္စ မျိုးခွဲဝင် ဖြစ်ကြသည်။ ထိုအပင်မျိုးတို့သည် အလွန်အသက်ရှည်ကြရာ အချို့သည် အနှစ် ၃၀၀ ကျော် ၄၀၀ ခန့် ရှိပြီဟု ဆိုကြလေသည်။

ကိုပယ် သစ်စေးသည် ရိုဇင်ထက် အက်ဆစ် ပို၍ နည်းသည်။ ဘီသွာဆီဖြင့်ဖျော်မှသာ ပျော်သည်။ ဇိုင်ယာနိုင်ငံမှ ထွက်သော ကိုပယ်သည် ရိုဇင်ကဲ့သို့ ဂလစ်ဆရင်းဖြင့် ရောနိုင်၍ အရောင် ပြောင်လက်ပြီးလျှင် ကြာရှည်ခံသော အရောင်တင်ဆီများကို ပြုလုပ်နိုင်လေသည်။

အရှေ့ အိန္ဒိယ ကျွန်းစုမှ ဒမားဟုခေါ်သည့် သစ်စေးမျိုး ထွက်သည်။ ထိုသစ်စေးမျိုး ထွက်သော အပင်များသည် ဒစ်ပတာရိုပေစီအီး ဟုခေါ်သော ကညင်မျိုးရင်းဝင် အပင်များဖြစ်သည်။ သင်္ကန်း မျိုးစိတ်များ ဖြစ်ကြသော ဟိုပီယာ မီကရန်သား၊ ဟိုပီယာ ဂလိုဗိုစာ တို့သည်လည်း ဒမား သစ်စေး အများအပြား ထုတ်ယူ ရရှိသော အပင်မျိုး ဖြစ်ကြလေသည်။

ဒမား သစ်စေးမျိုးသည် တာရပင်ဆီနှင့် ကျောက်မီးသွေးနက်ဖသာတို့ဖြင့် ပျော်အောင် ဖျော်၍ ရသည်။ ထိုသစ်စေးတို့ဖြင့် ပြုလုပ်သော အရောင်တင်ဆီတို့သည် အရောင် ဖျော့ဖျော့ဖြင့် တောက်ပြောင်ပြီးလျှင် အရည်ကြည်လင်သည်။ သို့သော် ဆေးသား ကြာရှည် မခံခြင်း၊ ထိလိုက်လျှင် စေးကပ်ကပ်ရှိနေတတ်ခြင်းတို့ကြောင့် ဒမား သစ်စေး အစား ခေါ်ကော်စေးများကို အသုံး ပြုကြလေသည်။

အထက် ဖော်ပြပါတို့ကဲ့သို့ ကုန်သွယ်စီးပွားရေး လောက၌ အရေးမပါသော်လည်း ခြယ်ဆေး၊ အရောင်တင်ဆေး လုပ်ငန်းတို့၌ အသုံးပြုလျက်ရှိကြသည့် သစ်စေးတို့ ရှိသေးရာ ယင်းတို့တွင် ဆန္ဒရက်နှင့် မက်စတစ်တို့ကို ဖော်ပြလိုပေသည်။ ဆန္ဒရက် သစ်စေးသည် တက်တြာကလီနစ် မျိုးခွဲဝင် ထင်းရှူးပင်ငယ် တမျိုးမှ ရရှိ၍ စပိန်နှင့် မြောက်အာဖရိကတိုက်မှ ထွက်သည်။ ဩစတြေးလီးယားတိုက်မှလည်း ထိုထင်းရှူးမျိုးနှင့် နီးစပ်သော ထင်းရှူးပင်မျိုးတို့မှ ဆန္ဒရက်သစ်စေးမျိုးကို ရရှိသည်။ဩစတြေးလီးယားတိုက်

ထွက် ဆန္ဒရက်သစ်စေးသည် ဆီပိုများသဖြင့် ပျော့ပျောင်းသည်။ အနံ့သင်းသင်း ရှိသည်။ ဆေးလုံးများ အုပ်ရန် အခွံများ ပြုလုပ်ရာ၌ သုံးကြသည်။ ဆန္ဒရက် သစ်စေးသည် မာကျောသဖြင့် ကတ်ပြား သားရေနှင့် သတ္တုများကို အရောင်တင်သော ဆေးများ၌ အသုံးပြုသည်။

မက်စတစ် သစ်စေးသည် ဥရောပတောင်ပိုင်းနှင့်မြောက်အာဖရိကတိုက်၌ ပေါက်ရောက်သော သစ်ပင်တမျိုးမှရရှိ၍ ဆန္ဒရက်နှင့် ဆင်ဆင်တူသည်။ သို့သော် ပို၍ ဈေးကြီးပြီးလျှင် အရောင်တင်ဆီ အကောင်းစားများ၊ ခြယ်ဆေး အကောင်းစားများ၌ ထည့်သွင်း အသုံးပြုကြရာ ပန်းချီဆေးများ၌ မက်စတစ် ပါဝင်လေသည်။

ဘယဆေးများတွင်၎င်း၊ အမွှေးဆီများတွင်၎င်း အသုံးပြုကြသော သစ်စေးများအနက် ယိုးဒယားနှင့် ဆူမတြားမှ ထွက်သော ဗင်ဇောနှင့် နဂါးသွေး အမည်ရှိ အနီရောင် သစ်စေး အမျိုးမျိုးတို့လည်း ပါဝင်သည်။ ၁၈ ရာစုနှစ်က ဣတာလျံ တရောလုပ်ငန်း လုပ်သူများ အသုံးပြုကြသည့် နဂါးသွေး သစ်စေးသည် ထိုစဉ်က အာရှတိုက်မြောက်ပိုင်းမှ ထွက်ရှိခဲ့သည်။ အာရပ်လူမျိုးတို့ကမူ ထိုသစ်စေးမျိုးကို ဘယဆေးများ၌ အသုံးပြုခဲ့ကြလေသည်။ ထို့ပြင် ဘမ်းပရုပ်ဆီ ပြုလုပ်သော သစ်စေးမျိုး ရှိသေးရာ ပင်လယ်နီကမ်းခြေ၌ ပေါက်သော ကွမ်မီဖိုရာမျိုးခွဲဝင် မက္ကာ ဒန်းပင်မျိုးမှ ရရှိသော အဆီသည် ပို၍ ကောင်းလေသည်။

ထို့ပြင် အယ်လမီ ဟုခေါ်သော သစ်စေးပျော့ အမျိုးမျိုးရှိသေးရာ အပူပိုင်းဒေသရှိ အပင်ငယ်များမှ ရရှိသည်။ အနံ့မွှေးသဖြင့် အမွှေးဆီ လုပ်ကိုင်ရာ၌ အသုံးပြုကြသည်။ အရှေ့ အိန္ဒိယ ကျွန်းစုနှင့် ဖိလစ်ပိုင် ကျွန်းစုတွင် ဗာဆီရေစီအီး မျိုးရင်းတွင်ပါဝင်သော အပင်များမှ ရရှိလေသည်။

အခြား အခြားသော သစ်စေးများနှင့်မတူ ထူးခြားသော သစ်စေး တမျိုးမှာ ပယင်းဖြစ်လေသည်။ ပယင်းသည် အပင်ကို ထွင်း၍၊ ထစ်၍၊ ခြစ်၍ ရသော သစ်စေး မဟုတ်ပေ။ နှစ်ပေါင်း ထောင်နှင့် ချီ၍ ကြာမြင့်ခဲ့သော ကာလက မြေလွှာအောက်တွင် နစ်မြုပ်နေခဲ့သည့် ထင်းရှူးပင်များ၏ သစ်စေးခဲဖြစ်သည်။ (ပယင်း — ရှု။) အခြား ထူးခြားသော သစ်စေးတမျိုးမှာ ရှဲလက်ဟု ခေါ်သော ချိပ်ဖတ်ဖြစ်၍ သစ်ပင်ကို အာဟာရအဖြစ် မှီဝဲကြသည့် အကြေးရှိသော ပိုးကောင်ငယ် ကလေးများမှ ရရှိသည့် အစေး တမျိုး ဖြစ်သည်။ ချိပ်ကို အရောင်တင်ဆေး လုပ်ငန်း၌၎င်း၊ ဓာတ်ပြားလုပ်ငန်း၌၎င်း အသုံးပြုကြလေသည်။

မြန်မာနိုင်ငံတွင် ရုက္ခဗေဒ အမည်ဖြင့် မယ်လာနိုရီယာ ယူစီတာလာဟု ခေါ်သော သစ်စေးပင်မှ ရရှိသည့် သစ်စေးကို ယွန်းထည်လုပ်ငန်း၊ ကျောက်ကာလုပ်ငန်း၊ မှန်စီရွှေချလုပ်ငန်း၊ ရွှေရေး၊ ရွှေချ လုပ်ငန်းတို့တွင် အသုံးပြုသည်။ ထို့ပြင် သစ်သား၊ ကျောက်၊ သံ အစရှိသည်တို့ကို အရောင်တင်ရာ၌၎င်း၊ ထီးရွက် ပြုလုပ်သော မိုးရေခံ ပိတ်နှင့် စက္ကူများ ပြုလုပ်ရာ၌၎င်း သစ်စေးကို အသုံးချကြသေးသည်။ ဆန်ကော၊ ဆန်ခါ၊ တောင်း စသည်တို့ ခိုင်ခံ့၍ ကြာရှည် အသုံးခံရန် သစ်စေးဖြင့် သုတ်လိမ်းခြင်း၊ သစ်စေးဖြင့် လှေ စသည်တို့ကို ဖာထေးခြင်း၊ အိုးစည်၊ ဒိုးပတ်၊ ပုံ စသည့် ပစ္စည်းများ၏ ပတ်စာ ထည့်ရသော သားရေမျက်နှာပြင်ကိုလည်း သစ်စေးဖြင့် သုတ်လိမ်းခြင်း စသည်တို့ကို ပြုလုပ်ကြသည်။

သစ်စေးပင်သည် အန်နကာဒီယေးစီအီး မျိုးရင်းဝင်ဖြစ်၍ သရက်၊ လွှန်ဖို၊ မရမ်း စသည်တို့နှင့် မျိုးရင်း တူသည်။ အထက်နှင့်အောက် မြန်မာနိုင်ငံ အရပ်ရပ်၌ အမြင့်ပေ ၃,၅၀၀ ထက် မကျော်သော ဒေသများတွင် တွေ့ရှိရသည့် အင်တိုင်း စသော တောခြောက်များတွင် ပေါက်ရောက်သည်။

ထိုသစ်စေးပင်မျိုးကို အနောက်ဖက်၌ မဏိပူရတွင် တွေ့ရသော်လည်း အာသံပြည်နယ်၌ မပေါက်ချေ။ မဏိပူရတွင် ထိုသစ်စေးပင်ကို ချူးဟု ခေါ်သည်။ အရှေ့ဖက်တွင် ယိုးဒယားနှင့် ဗီယက်နမ်နိုင်ငံတို့၌ တွေ့ရှိရလေသည်။

သစ်စေးပင်သည် ရွက်ကြွေပင်မျိုးဖြစ်၍ အမြင့် ပေ ၅၀ မှ ၆၀ အထိ ရှိပြီးလျှင် ရင်စို့ လုံးပတ် ကိုးပေခန့် အထိ ရှိနိုင်သည်။ ပင်စည်ဖြောင့်၍ အတော်အတန် မြင့်သည့်တိုင်အောင် အကိုင်းအခက် မရှိပဲ စင်းလုံးချောသည်။ အရွက်များသည် အရင်းသိမ်၍ အဖျားကျယ်သည်။ အခေါက်သည် မှိုင်းပြာရင့်ရောင် ဖြစ်သည်။ မြန်မာနိုင်ငံတွင် အဖြူ၊ အနီ၊ အနက် ဟူ၍ သစ်စေးပင် သုံးမျိုး ခွဲခြားထားသော်လည်း အနည်းငယ်မျှသာ ကွဲပြားမှုရှိသည်။ အနက်မျိုးသည် အနည်းငယ် ပို၍ ညိုမည်းသော အခေါက်ရှိသည့်ပြင် အရွက်များသည် အနည်းငယ်ပို၍ ဝိုင်းသည်။ အကိုင်းငယ်များ၊ ရွက်ညှာများ၊ အရွက်အောက်ဖက်နှင့် ပွင့်ညှာတံတို့တွင် မွေးနုများရှိသည်။ အသီးများသည် အနီရောင်ရှိ၍ အတွင်း ခွံမာသီးမျိုး ဖြစ်သည်။ အသီးညှာ ရင်းတွင် တောင်ပံနှင့်တူသော အဖတ်ငါးခုသည် ပန်ကာရွက်များ သဏ္ဍာန် ဖြာထွက်လျက် ရှိသည်။ သစ်စေးပင်သည် ပြန့်ကျယ်သော ရွက်အုပ်ရှိသည်။ ထိုအပင်မျိုးသည် ကျောက်စရစ်မြေမျိုး၌ ပိုမိုဖြစ်ထွန်းလေသည်။

ဇန်နဝါရီလတွင် အရွက်ကြွေ၍မတ်လလယ်ခန့်တိုင်အောင် အရွက်မရှိ ရိုးတံကျဲကျဲ ရှိနေချိန်တွင် အပွင့်ဖြူဖြူများသည် ပင်လုံးကျွတ်ပွင့်သည်။ မတ်လကုန်လောက်တွင် အသီးထွက်၍ ဇွန်လတွင် အသီးမှည့်လေသည်။

သစ်စေးသားသည် အနီရင့်ရောင်ဖြစ်၍ အဝါစင်းများလည်းရှိသည်။ ကြာမြင့်စွာ လေသလပ် ခံထားပါက ပို၍

အရောင်ရင့် သွားသည်။ သစ်သားသည် မာကျော သိပ်သည်းလေးလံပြီးလျှင် ကြာရှည်အသုံးခံသည်။ အသားအစိုသည် ကုဗတပေလျှင် ပေါင် ၆၀ လေးသည်။ မြန်မာနိုင်ငံတွင် သစ်စေးသားဖြင့် အိမ်တိုင်၊ တန်တား၊ စူး ဆောက်လက်ကိုင်ရိုးများ၊ ထွန်တုံး၊ ကျောက်ဆူးတိုင်များ စသည်တို့ကို ပြုလုပ်သုံးစွဲသည့်ပြင် ဇလီဖားတုံး၊ သေနတ်ဒင်စသည်တို့ကိုလည်း ထိုသစ်သားဖြင့် ပြုလုပ်ကြသည်။ ပေါင်းခံ၍ခြောက်သွေ့ပြီးသော သစ်စေးသားသည် ဦးချိုကဲ့သို့ အလွန်မာကျောသဖြင့် ခွဲစိတ်ရန် ခဲယဉ်းသောကြောင့် အသုံးနည်းသည်။ သတ္တုတွင်း လုပ်ငန်းများ၌ အသုံးပြုရန် သင့်လျော်သော သစ်သားဖြစ်လေသည်။

သစ်သားထက် ပို၍ အသုံးဝင်သော သစ်စေးပင်ထွက်ပစ္စည်းသည် အခေါက်မှ ထွက်သော အစေးဖြစ်သည်။

သစ်စေးထိုးခြင်း၊ သို့မဟုတ် သစ်စေးထုတ်ယူခြင်းသည် သက်သာ လွယ်ကူသော အလုပ် မဟုတ်ချေ။ လူသူမနီး တောကြီး မျက်မည်းထဲ၌ မိုးရွာမရှောင်၊ နေပူမရှောင် ပင်ပင်ပန်းပန်း လုပ်ကိုင်ကြရသည်။

သစ်စေးကို ဝါခေါင်လမှ တပို့တွဲလအထိ ထိုးရသည်။ တပို့တွဲလ လွန်လျှင် အရွက်ပြတ်ချိန် သစ်ရည် ရပ်နားချိန်ဖြစ်၍ အစေးမထွက်ချေ။ သစ်စေးထုတ်၍ အကောင်းဆုံး အချိန်သည် တော်သလင်းလမှ နတ်တော်လအတွင်း ဖြစ်သည်။ လုံးပတ်နှစ်ပေထက် ကြီးသော အပင်များကို သစ်စေး ထိုးနိုင်သည်။ သစ်တောကြိုးဝိုင်းများတွင်မူ လုံးပတ်သုံးပေထက် ငယ်သော အပင်များကို သစ်စေး မထိုးရန် ကန့်သတ်ထားလေသည်။

သစ်စေးထိုးမည့်အပင်ကို မြေကြီးမှ နှစ်တောင့်ထွာခန့်နေရာကစ၍ အင်္ဂလိပ်စာလုံး ဗွီပုံသဏ္ဌာန် အထစ်များကို တခုပြီးတခု အထက်သို့ ဆင့်ကာဆင့်ကာ ထစ်သွားရသည်။ ထို့နောက် ထောင့်စွန်း အောက်တည့်တည့်တွင် ဝါးကျည်တောက်ကို ခံပေးရသည်။ တခါ ထစ်ထားလျှင် ခုနစ်ရက်ရှစ်ရက်ကြာမျှ သစ်စေးများ မနားတမ်း ရရှိနိုင်သည်။ စုဆောင်းရရှိသော သစ်စေးများကို ဝါးကျည်တောက်မှ မြေအိုးသို့ပြောင်းပြီးလျှင် မခြောက်သွေ့စေခြင်းငှာ အပေါ်မှ အဝတ်ရေစိုဖြင့် အုပ်ထားရလေသည်။

အခေါက်ကို ဓားဖြင့် တပင်လျှင် အထစ်ပေါင်း ၂၀ မှ ၃၀ အထိ ခုတ်ထစ်နိုင်သည်။ ထစ်လိုက်၍ ယိုစီးထွက်လာသော သစ်စေးသည် ပျစ်ချွဲ၍ မဲ့ပြာရောင်ဖြစ်သည်။ လေနှင့် ထိသောအခါ အရောင်ပြောင်းသွားလေသည်။ သစ်စေးထဲတွင် အခိုးဖြစ်၍ ပျောက်လွင့်တတ်သော အဆိပ်တမျိုး ပါသဖြင့် သစ်စေးနှင့် ထိမိလျှင် ကိုယ်ခန္ဓာ၌ ယားယံ၍ အဖုအပိမ့်ဖြစ်စေတတ်သောကြောင့် သစ်စေးကို ကိုင်တွယ်ရာ၌ သတိထားကြရသည်။ သစ်စေး စက်တတ်သည်။ ကျွန်းသားယောင်းမကို သစ်စေးထဲသို့ထည့်၍ မှေလျှင် အဆိပ်အတောက် ပျက်စေနိုင်သည်ဟု ဆိုကြသည်။ ဖဲရစ်အောက်ဆိုက်ကို သစ်စေး၏ အလေးချိန် ၁၀ ရာခိုင်နှုန်း ထည့်၍ မှောစပ်ပေးလျှင်လည်း အသားအရေကို အန္တရာယ်မပြုနိုင်ဟု သိရှိရသည်။

ဝါခေါင်လနှင့် တော်သလင်းလများတွင် ထွက်သော သစ်စေးသည် အရည်သွက်၍ အရောင်သည် နီကြန်ကြန်ဖြစ်သည်။ သီတင်းကျွတ်လနှင့် တန်ဆောင်မုန်းလများတွင် ထွက်သော သစ်စေးသည် အရောင်ညိုသည်။ ပြာသိုလနှင့် တပို့တွဲလများတွင် ရရှိသော သစ်စေးသည် အရည်တွဲ၍ အရောင်နက်သည်။ ယင်းသို့ အရောင်ကွဲပြားခြင်းသည် သစ်စေးတွင် ပါရှိသော မိုးရေ အနည်း အများ လိုက်၍ ဖြစ်သည်ဟု အချို့က ယူဆသည်။ မည်သို့ပင်ဖြစ်စေ၊ အနက်ရောင် သစ်စေးသည် လူကြိုက်အများဆုံးနှင့် ဈေးအရဆုံး ဖြစ်သည်။

ထစ်ရာတခုသည် အသားပြန်ပြည့်ရန် လေးနှစ်မှ ခုနစ်နှစ်အထိ ကြာရှည်သဖြင့် သစ်စေးထိုးခြင်းကို စံနစ်တကျ ပြုလုပ်သင့်ပေသည်။ ခုတ်ထစ်၍ သစ်စေး ထုတ်ယူသည့် အတွက် သစ်ပင်၏ သက်တမ်းကို ထိခိုက်ဟန် မတူသော်လည်း အပင်၏ အင်အားနှင့် မမျှအောင် ထုတ်ယူခဲ့လျှင် သစ်ပင်ပျက်စီးပေမည်။ ထို့ကြောင့် သစ်စေး ထုတ်ယူသော အပင်များအား ရပ်နားခွင့် ပေးရပေရာ သံလွင်မြစ်၏ အရှေ့ဖက်ရှိ မြေသည် အနောက်ဖက်ရှိ မြေထက် မြေဩဇာ ညံ့ဖျင်းသဖြင့် ထိုဒေသတွင် သစ်စေးပင်များကို သုံးနှစ် ရပ်နားချိန်ပေးရ၍ နောက်ဖက်ရှိ အပင်များကိုမူ နှစ်နှစ် ရပ်နားချိန် ပေးရလေသည်။

သစ်စေး ထိုးသူတဦး တရာသီတွင် သစ်စေး ပိသာချိန် ၄၀ မှ ၆၀ ထိ ရရှိနိုင်သည်။ ကျွမ်းကျင်သူသည် ထိုထက်ပိုမိုရရှိသည်။ သစ်စေး အများဆုံး ထွက်သော အပင်မှ တရာသီလျှင် ၁၀ ပိသာခန့်သာ ရရှိသည်။ သစ်စေး ဈေးသည် သစ်စေးမျိုး အညံ့အကောင်းပေါ် တွင် တည်၍ ပိသာ ၁၀၀ လျှင် ၃၇၅ ကျပ်မှ ၅၀၀ ကျပ်ဈေးအထိ ရှိလေသည်။

မြန်မာနိုင်ငံတွင် သစ်စေးထွက်သော ဒေသများမှာ စစ်တောင်းတိုင်းရှိ သစ်တောခရိုင်များ၊ ဥတ္တရတိုင်း သစ်တောခရိုင်များ၊ ချင်းတွင်းတိုင်း သစ်တောခရိုင်များနှင့် ရှမ်းပြည်နယ် သစ်တောခရိုင်များ ဖြစ်ကြရာ ရှမ်းပြည်နယ်မှ အများဆုံးဖြစ်၍ ဒုတိယ အများဆုံးသည် စစ်တောင်းတိုင်း ဖြစ်သည်။ ရှမ်းပြည်တောင်ပိုင်းမှ သစ်စေးအများဆုံးထွက်ရာ မိုးနဲနယ်၊ ကျိုင်းတောင်း ကျိုင်းခမ်းနယ်၊ သံလွင်မြစ်အရှေ့ဖက် မိုင်းပူနှင့် မိုင်းကဲ သစ်တောကြိုးဝိုင်း၊ မိုင်းပန်နယ်တို့သည် သစ်စေးအထွက်များသောဒေသများ ဖြစ်ကြသည်။ ထိုဒေသများတွင် သစ်စေး ထိုးခြင်းသည် အရေးပါသော အသက်မွေးဝမ်းကျောင်း လုပ်ငန်းတရပ်ဖြစ်ပေသည်။ ၁၉၆၁

ခုနှစ်မှ ၁၉၆၉ ခုနှစ်အထိ နှစ်များအတွင်း နှစ်စဉ် မြန်မာတနိုင်ငံလုံးမှ သစ်စေး ပိသာချိန် လေးသောင်းခွဲမှ ရှစ်သောင်း နီးပါးထိ ထွက်သည်။ ရှေးက ရှမ်းပြည်နယ်မှပင် ပိသာချိန် တသိန်းကျော် ထွက်ခဲ့၍ မိုးနဲနယ် တုံဟုံးတွင် သစ်စေးကို အရောင်းအဝယ် အများဆုံး ပြုလုပ်ကြသည်။ ယခုအခါ ရှမ်းပြည်နယ်တွင် သစ်စေးပင်များကို အဆမတန် ခုတ်ထစ် အစေးထုတ်ယူကြသဖြင့်၎င်း၊ ပြည်မတွင် သစ်စေးသားကို အိုးအိမ် အဆောက်အအုံနှင့် အသုံးအဆောင် ပစ္စည်းများ ပြုလုပ် အသုံးချမှု များပြားလာ၍၎င်း သစ်စေးပင်များပျက်စီး၍သစ်စေးထွက် ယုတ်လျော့လာခဲ့လေသည်။

ရရှိသော သစ်စေးများကို ပြည်တွင်းသုံး အတွက်သာမက နိုင်ငံခြား (ဂျပန်)သို့လည်း တင်ပို့ခဲ့သည်။ ၁၉၅၆–၅၇ ခုနှစ်တွင် သစ်စေးထွက်၏ ၁၄.၉ ရာခိုင်နှုန်း ဖြစ်သော ပိသာချိန် ၆,၂၃၈ ကို တင်ပို့ခဲ့ရာ သင့်ငွေတန်ဖိုး ကျပ် ၇၅,၁၁၉ ဖြစ်သည်။ ၁၉၅၈–၅၉ ခုနှစ်တွင် ၂၀.၇ ရာခိုင်နှုန်း ဖြစ်သော ပိသာချိန် ၉,၇၈၃ ကို တင်ပို့ရာ တန်ဖိုးသင့်ငွေ ကျပ် ၁၁၃,၇၂၀ ဖြစ်လေသည်။

ယခုခေတ်တွင် ဓာတ်ပစ္စည်း အမျိုးမျိုးတို့ဖြင့် သစ်စေး ကော်စေးတို့ကို ဖန်တီးပြုလုပ်နိုင်ကြပေပြီ။ယင်းတို့ကို ဓာတ်သစ်စေး၊ ဓာတ်ကော်စေး ဟုခေါ်ကြ၍ ဓာတ်ကော်စေးသည် ယခုအခါ အလွန်အသုံးများလျက် ရှိသော ပလပ်စတစ်တမျိုးပင် ဖြစ်လေသည်။ (ပလပ်စတစ် — လည်းရှု။) ထိုဓာတ်သစ်စေး ဓာတ်ကော်စေးတို့ကို သဘာဝ သစ်စေး သဘာဝ ကော်စေးကဲ့သို့ပင် အသုံးချနိုင်သည်။ သို့သော် ဓာတ်ပစ္စည်းများဖြင့် လူတို့ ဖန်တီး တီထွင်ပြုလုပ်ကြသော ဓာတ်သစ်စေးတို့သည် သဘာဝသစ်စေးတို့နှင့် ရုပ်ဂုဏ်များတွင် တူကြသော်လည်း ဓာတ်ဂုဏ်များတွင်မူ ကွဲပြားခြားနားကြသည်။ ဓာတ်သစ်စေးက သဘာဝသစ်စေးထက် ပို၍ အကျိုးများသော အချက်များလည်း ရှိပေရာ ယင်းတို့မှာ (၁) အမျိုးအစား တညီတညွတ်တည်း ရနိုင်ခြင်း၊ (၂) အလိုရှိသော ဓာတ်ပစ္စည်းမျိုး ပါအောင် ပြုပြင် ဖန်တီးယူနိုင်ခြင်း၊ (၃) အရောင်ကောင်းခြင်း၊ ကြာရှည် ခံခြင်း၊ မာကျောခြင်း ဟူသော ဂုဏ်သတ္တိများ ပို၍ရှိခြင်းတို့ ဖြစ်လေသည်။

**သစ်ဆိမ့်ပင်။** ။သစ်ဆိမ့်ပင်သည် အိန္ဒိယနိုင်ငံ၊ သီဟိုဠ်ကျွန်းနှင့် မလ္လာယုကျွန်းဆွယ်တို့၏ စိုစွတ်သော မြေနိမ့်ဒေသများ၌ မူလပေါက်ရောက်သော အပင်မျိုး ဖြစ်သည်။ မြန်မာနိုင်ငံရှိ မြေညီသစ်တောနှင့် တောင်ကုန်း သစ်တောများ၌ ပေါက်ရောက်၍ အိန္ဒိယနိုင်ငံနှင့် သီဟိုဠ်ကျွန်းတွင် ပေ ၃၀၀၀ အောက် ဒေသများရှိ သစ်တောများ၌ တွေ့ရလေသည်။

ယင်းသည် ကွန်ဗရီတေစီအီး မျိုးရင်းဝင် ဖြစ်၍ ဗာဒမ်ရိုင်းပင်နှင့် မျိုးတူ ဖြစ်သည်။ ရုက္ခဗေဒ အမည်အားဖြင့် တာမီလာနီယား ဗယ်လာရီကားဟု ခေါ်လေသည်။ နွေရာသီတွင် အရွက်ကြွေသော အပင်ကြီးမျိုး ဖြစ်၍ ပေ ၆၀ မှ ပေ ၇၀ အထိ မြင့်မားနိုင်ပြီးလျှင် လုံးပတ် ခြောက်ပေမှ ခုနှစ်ပေအထိ ရှိလေသည်။ ပင်စည်သည် ဖြောင့်မတ်မြင့်မားပြီးလျှင် အကိုင်းအခက်များသည် ဘေးသို့ ပြန့်ကားလျက် ထွက်ကြရာ အပင် အနေအထား ခန့်ညားလှပသည်။ ထို့ကြောင့် အိန္ဒိယနိုင်ငံအချို့အရပ်ဒေသများ၌ လမ်းဘေးတွင် သစ်ဆိမ့်ပင်များကို စိုက်ထားလေသည်။

သစ်ဆိမ့်ပင်တို့၌ ကျားကန်မြစ်များရှိသည်ကို တခါတရံ တွေ့ရသည်။ အခေါက်သည် ထူ၍ ကြွပ်ဆတ်ဆတ်ဖြစ်ပြီးလျှင် မွဲခြောက်ခြောက် အရောင်ရှိသည်။ အရွက်နုများတွင် သံချေးရောင် အမွေးများ ဖုံးလွှမ်းနေတတ်သည်။ အရွက်ရင့်များသည် ထူပြီးလျှင် အပေါ်ပိုင်း ကားသည်။ရှည်လျားသော ရွက်ညှာတံရှိ၍ အရွက်နှင့်အညှာ ဆက်သော နေရာတွင် မှဲ့ကလေးနှစ်ခုကို ရံဖန်ရံခါ တွေ့ရသည်။ အပွင့်များသည် သေးငယ်၍ ဝါမွဲမွဲအရောင် ရှိသည်။ အသီးသည် မွဲခြောက်ခြောက် ကတ္တီပါမွေးများဖြင့် ဖုံးလွှမ်းနေသော အတွင်း ခံ့မာသီးမျိုး ဖြစ်၍ တလက်မခန့် ရှည်ပြီးလျှင် ထိပ်လုံး၍ အရင်းသွယ်သော ဥရင်းသွယ်ပုံသဏ္ဌာန် ရှိလေသည်။ သစ်ဆိမ့်သီး၌ အသား များလေသည်။

အိန္ဒိယနိုင်ငံ၌ အသီးစိမ်းများကို သိုး၊ ဆိတ်၊ ကျွဲ၊ နွားနှင့် မျောက်များ စားကြသည်။ အသီးခြောက်များကို ဆိုးဆေးများ၌ အသုံးပြုရန် အိန္ဒိယနိုင်ငံမှနိုင်ငံခြားသို့ တင်ပို့ရသည်။ သို့သော် အမျိုးအစား ညံ့ဖျင်းသော ဆိုးဆေးများ၌သာ အသုံးပြုကြရလေသည်။ ထိုအသီးခြောက်များသည် ဆေးဖက်လည်းဝင်သည်။ အသီးအတွင်းမှ အစေ့ဆန်ကို စားကြရသော်လည်း များများ စားလျှင် မူးဝေတတ်သည်ဟု ဆိုသည်။ မြန်မာနိုင်ငံတွင် သစ်ဆိမ့်သီးကို လှော်၍သော်၎င်း၊ ပြုတ်၍သော်၎င်း စားသုံးကြလေသည်။

မြန်မာဆေးကျမ်းများ အလိုမှာ သစ်ဆိမ့်သီးသည် အသံကို ပျက်စေတတ်၏။ ပူသဖြင့် လူကိုခြောက်သွေ့စေတတ်၏။ ဖန်၏။ သုက်နာ၊ ပိုးနာတို့ကို နိုင်၏။ မျက်စိနှင့်လည်း သင့်၏။သလိပ်နာ၊ သည်းခြေနာများကိုလည်း ပယ်နိုင်၏ဟု ဆိုလေသည်။

အိန္ဒိယဆေးကျမ်းများ အရ သစ်ဆိမ့်သီးသည် ချောင်းဆိုးရောဂါ၊ အသံဝင်ရောဂါ၊ မျက်စိရောဂါများနှင့် ကင်းကိုက်ခြင်းအတွက် ဆေးဖက်ဝင်သည်။ ချောင်းဆိုးခြင်း၊ အသံဝင်ခြင်း၊ လည်ချောင်းနာခြင်း၊ အသက်ရှုကျပ်ခြင်း ဖြစ်ပါက သစ်ဆိမ့်သီး အတွင်းသားကို ဆား၊ ငရုတ်ကောင်းတို့နှင့် ရော၍ တေပြီး စားသုံးရသည်။ သို့မဟုတ် နို့ရက်

တက်ရည်နှင့် ရော၍ လျက်ပေးရသည်ဟု ဆိုလေသည်။ အသီးမှည့်ခြောက်ကို ချုပ်ဆေး၊ အားတိုးဆေးနှင့် ဝမ်းနုတ်ဆေးတို့၌ အသုံးပြုနိုင်လေသည်။

သစ်ဆိမ့်သားသည် ဝါမွဲမွဲအရောင်ရှိ၍ အနှစ်မပါသော အသားမျိုး ဖြစ်သဖြင့် တန်ဖိုး မရှိလှချေ။ လေသလပ်ထား၍ အသားသေပြီးသော သစ်ဆိမ့်သား ကုဗတပေသည် ပေါင် ၄၀ အချိန်စီးလေသည်။ ခွဲဖြတ်စိတ်ဖြာရန် လွယ်ကူသော်လည်း အသားသည် ပျဉ်းမာသဖြင့် ရွှေပေါ်ထိုး၍ မညီညာနိုင်ပေ။ ရေအောက်တွင်ထား၍ အသုံးပြုမှသာလျှင် တာရှည်ခံသဖြင့် ရေတွင်းများ၌ အတွင်းပေါင် ခတ်ရန်၊ ရေလှဲ့တံခါးပေါက်များ ပြုလုပ်ရန် အသုံးပြုကြသည်။ စူး၊ ဆောက်၊ ပုဆိန် အစရှိသော လက်သမားကရိယာတို့၏ လက်ကိုင်ရိုးများကို သစ်ဆိမ့်သားဖြင့် ပြုလုပ်ကြသည်။ ခင်းပျဉ်အကြမ်းစား၊ ကုန်သေတ္တာ၊ ဘောက်တူ၊ လှည်းနှင့် ရေစည်များကိုလည်း သစ်ဆိမ့်သားဖြင့် ပြုလုပ်ကြလေသည်။

သစ်ဆိမ့်သား မီးသွေးသည် ပန်းပဲဖို၊ ပန်းထိမ်ဖိုများတွင် အသုံးပြုသင့်သော မီးသွေးမျိုး ဖြစ်လေသည်။

**သစ်ဆွေး မီးသွေး။** ။သစ်ဆွေး မီးသွေးသည် စိမ့်မြေ၊ နုံးမြေ၊ ရွှံ့နွံများထဲတွင် နှစ်ပေါင်း ထောင်သောင်း မကသော ကာလက စ၍ တဖြည်းဖြည်း ဆွေးမြည့်လာခဲ့သည့် ရှေးဟောင်း အပင်တို့၏ အကြွင်းအကျန်များမှ အစိုင်အခဲဖွဲ့ကာ ဖြစ်ပေါ်လာခြင်း ဖြစ်လေသည်။ အဆိုပါ အပင်များတွင် ရေမှော်၊ ရေညှိ၊ ကျူပင်၊ ကိုင်းပင်၊ မြက်ပင်မှ စ၍ အလွန်ကြီးမားသော အပင်ကြီးများအထိ ပါဝင်၏။

မြန်မာနိုင်ငံ ရေကန် ရေအိုင်များရှိ ဗေဒါပင်ကဲ့သို့ ရေဖြင့် ကင်းဝေးမနေနိုင်သော ရေညှိပင်၊ ရေမှော်ပင်၊ ကျူပင်၊ ကိုင်းပင်များ အနက် အချို့အပင်များသည် အပေါ်ယံ၌ အစို့အတက် ပေါက်၍ အသက်ရှင် နေကြသော်လည်း အောက်ဖက်တွင် သေလျက်ရှိကြ၏။ အမြစ်များသည် ရေကို အဝ စုတ်ယူလျက် တဖြည်းဖြည်း ပုပ်ပွ ဆွေးမြည့်လာရာ အခြား အမှိုက်သရိုက်တို့နှင့် ငြိတွယ် ရောယှက်ပြီးလျှင် အစိုင်အခဲသည် ကြီးမားသည်ထက် ကြီးမားလာပြီးနောက် ရေအောက်သို့ နစ်မြုပ် သွားလေသည်။ တဖန် ရေအောက်မြေပြင်သို့ရောက်၍ ရွှံ့နွံများ စိမ့်မြေများဖြင့် ငြိတွယ်နစ်မြုပ်သွားပြန်သော အခါ လေဝင်ခြင်းမှ လုံးလုံး ကင်းကာ အထပ်ထပ် ဖိနှိပ်မှုကလည်း ရှိပြန်သဖြင့် အစိုင်အခဲသည် ကျစ်လျစ်၍ လာပြန်သည်။ ထိုအတွင်း သဘာဝအလျောက် ဓာတ်ပြောင်းမှုများလည်း ရှိပြန်သေးသည်။

ပဌမ အစိုင်အခဲသည် မြက်ထွေး ကောက်ရိုးထွေးများကဲ့



အိုင်ယာလန်ပြည်တွင် ကျောက်မီးသွေးအစား သစ်ဆွေးမီးသွေးကို ထင်းမီးအဖြစ် အသုံးပြုကြသည်။

သို့ ဝါဖန့်ဖန့် ညိုမွဲမွဲ အရောင်ရှိ၏။ သို့ရာတွင် ရွှံ့နွံများဖြင့် ရောစပ်ပြီးလျှင် နှစ်ပရိစ္ဆေဒရှည်ကြာလတ်သော် ရွှံ့စေးနက်ကဲ့သို့ အညိုပုပ်ရောင် ဖြစ်ကာ နှစ်ပေါင်း ထောင်သောင်းမက ကြာသော အခါ သစ်ဆွေးမီးသွေးများ ဖြစ်လာလေသည်။ ထိုမှ တဆင့် နှစ်သန်းပေါင်းများစွာ ကြာသော အခါ ကျောက်မီးသွေး ဖြစ်လာသည်။ ထိုကြောင့် သစ်ဆွေး မီးသွေးသည် ကျောက်မီးသွေး ဖြစ်ပေါ်ရာလမ်းစဉ်တွင် ပဌမဆင့် ဖြစ်သည် ဟူ၍လည်း သိအပ်ပေသည်။

အနောက် နိုင်ငံများတွင် ထိုသစ်ဆွေးမီးသွေးမျိုး ပေါများရာ အရပ်ဒေသများ၌ တောသူ တောင်သားများသည် ယင်းတို့ကို တူးဖော်ဖြတ်တောက်ကာ နေပူတွင် လှန်းပြီး နောက် လောင်စာအဖြစ် အသုံးပြုကြလေသည်။ သစ်ဆွေး မီးသွေးသည် ရုရှ နိုင်ငံတွင် အလွန်ပေါများ၍ ယင်းတနိုင်ငံတည်း၌ပင် ဧရိယာ စတုရန်းမိုင်ပေါင်း ၆၅,၀၀၀ ခန့် ရှိကာ မြောက်အမေရိကတိုက် ကနေဒါနိုင်ငံတွင် စတုရန်း မိုင် ၃၇,၀၀၀ ခန့် ရှိလေသည်။ သို့သော် လူများသည် အခြား လောင်စာမရနိုင်သော နေရာများ၌သာ ယင်းတို့ကို တကူးတက ရှာဖွေ အသုံးပြုကြ၍ များစွာ မထင်ရှားချေ။

သစ်ဆွေး မီးသွေးများကို မြေလွှာအမျိုးမျိုးတွင် တွေ့ရ၏။ မြေမျက်နှာပြင်နှင့် နီးသော အလွှာတွင် တွေ့ရသော သစ်ဆွေးမီးသွေးသည် ညို၍ အောက်သို့ နက်လေလေ၊ အရောင်မှာ မည်းပြီးလျှင် ရွှံ့စေးနှင့် တူလေလေ ဖြစ်လာသည်။ မြောက်ဖက် ကမ္ဘာလုံးခြမ်းတွင် သစ်ဆွေး မီးသွေး ဖြစ်စေသော အပင်များသည် များသောအားဖြင့် ရေညှိပင်များနှင့် မှော်ပင်များ ဖြစ်ကြ၍ တောင်ဖက် ကမ္ဘာလုံးခြမ်းတွင်မူ ကျူပင်နှင့် ရေပေါ်ပေါက် အပင်များ ဖြစ်ကြလေသည်။ သစ်ဆွေးမီးသွေးထွက်သော တိုင်းပြည်များမှာ ရုရှနှင့် ကနေဒါနိုင်ငံတို့အပြင် ဖင်းလန်၊ ဆွီဒင်၊ အမေရိကန်ပြည်ထောင်စု၊ ဂျာမနီ၊ ဂရိတ်၊ ဗြိတိန်၊ အိုင်ယာလန်၊ နျူးဖောင်းလန်း၊ နော်ဝေး၊ ဩစတြီးယားနှင့် ဒိန်းမတ် နိုင်ငံတို့ ဖြစ်ကြလေသည်။

အညိုရောင်ရှိသော သစ်ဆွေးမီးသွေးသည် ပေါ့၍အရည်ကို စုတ်သော သတ္တိ ရှိ၏။ ထိုသစ်ဆွေးမီးသွေးကို မြင်းများ ကျွဲ နွားများအတွက် အိပ်ရာအဖြစ် အသုံးပြုကြသည့်ပြင် သကာ တင်လဲတို့နှင့် ရောစပ်၍လည်း ကျွဲစာ နွားစာများ အဖြစ် အသုံးပြုကြသည်။ သစ်ဆွေး မီးသွေး အမည်းတွင် နိုက်တြိုဂျင်ဓာတ် အများအပြား ပါဝင်သဖြင့် မြေဩဇာ အဖြစ်နှင့်လည်း အသုံးပြုကြလေသည်။

# ရွှေပင်ငွေခက်၊ တောကထွက်

တောတောင်စိမ်းက စမ်းရေရမည်။ ဥတုရာသီ တောကိုမှီ။ တောမဲ့မြေသား ရေတိုက်စား၏။ တောတောင်ခြောက်ခန်း လယ်ယာနွမ်းလိမ့်။ ကျေးငှက်သားရဲ တောမှာမြဲ။ တောရိပ်ခိုနေ အပန်းပြေ။ တောကိုမဖြုန်း ချင့်ချိန်သုံးလော့၊ သစ်တောကြွယ်က ဘဏ္ဍာရ၏။

**သစ်တော။** ။သစ်ပင်ကြီးငယ် အများအပြား စုရုံးပေါက်ရောက်နေသော တောကို သစ်တောဟု ခေါ်သည်။ သစ်တောဟု ဆိုလိုက်လျှင် လူသူမနီးသည့် တောကြီးမျက်မည်း ဟူ၍သာ ယေဘုယျအားဖြင့် ထင်မြင်ဖွယ်ရာ အကြောင်း ရှိသော်လည်း လူသည် သစ်တောနှင့် ကင်းကွာ၍ မရနိုင်အောင် နီးကပ် ဆက်စပ်လျက် ရှိလေသည်။ သစ်တောများသာ မရှိခဲ့လျှင် ကမ္ဘာမြေပြင်နှင့် ရာသီဥတု၊ လူနေမှု စံနစ်တို့သည် တမျိုးတဖုံ ပြောင်းလဲသွားဖွယ်ရာ ရှိပေသည်။ များစွာသော တိုင်းပြည်နိုင်ငံတို့၏ ဧရိယာအများအပြားသည် စိမ်းလန်း မှိုင်းညို့သော သစ်တောများ ဖြစ်ကြရာ သစ်နှင့် သစ်တောထွက် ပစ္စည်းများကို ရောင်းချခြင်းဖြင့် တိုင်းပြည်၏ ဘဏ္ဍာတော်ကို များစွာ ဖြည့်တင်းနိုင်သည် ကား မှန်ပေသည်။ သို့သော် တိုက်ရိုက်သော်၎င်း၊ သွယ်ဝိုက်၍သော်၎င်း သစ်တောများ၏ ကျေးဇူးပြုပုံ အခြားအချက်များလည်း ရှိသေးကြောင်းကိုမူ စိစစ် စဉ်းစားမိသူ နည်းပါးပေလိမ့်မည်။

ထိုအချက်အလက်များကား သစ်တောများသည် ရာသီဥတုကို မျှတစေခြင်း၊ မြေဆီလွှာ မပျက် မယွင်းအောင် ကာကွယ်ပေးခြင်း၊ စိမ့်စမ်း အင်း အိုင် တို့၌ ရေပေါများအောင် သိုလှောင်ပေးခြင်း၊လေပြင်းတိုက်ခတ်မှုမှ ကာကွယ်ပေးခြင်း၊ အင်းအိုင်ရေကန်တို့၌ အနည်အနှစ် ပို့ချမှု နည်းပါးစေခြင်း၊ တိုင်းပြည်၏ သယံဇာတဖြစ်သော တောရိုင်းသားငှက် တိရစ္ဆာန်တို့၏ ခိုအောင်းရာနေရာ ဖြစ်ခြင်း၊ လူသားတို့၏ စိတ်ကြည်နူးဖွယ် အပန်းဖြေနေရာ ဖြစ်ခြင်း စသည်တို့ ဖြစ်ကြပေသည်။

သစ်တောများသည် နေနှင့်လေကို ကာကွယ်သဖြင့် သစ်တောရှိသော အရပ်ဒေသသည် ရာသီဥတု မျှတသည်။ ရာသီဥတု သင့်တင့်မျှတမှုလည်း ကောက်ပဲသီးနှံတို့ ဖြစ်ထွန်းနိုင်ပေသည်။ တောင်ကုန်းများ၌ သစ်တောရှိလျှင် ထိုဒေသများ၌ မိုး ပိုမို၍ရွာသွန်းသည်။ အကြောင်းမှာ သစ်တော အပေါ်တွင် လေသည် အေးနေရာ လေထဲတွင် ပါလာသော ရေခိုးရေငွေ့များသည် လေအေးနှင့် တွေ့သောအခါ မိုး

အပြစ် ရှာချသဖြင့် သစ်တောများရှိရာ အရပ်တို့တွင် မိုးပိုမို ရွာခြင်း ဖြစ်လေသည်။ မြန်မာနိုင်ငံ အလယ်ပိုင်း၌ မိုးပါး ရေရှားရခြင်း၏ အကြောင်းများတွင် ထိုဒေသ၌ သစ်တော နည်းပါးခြင်းသည် အဓိက အကြောင်းတရပ် အဖြစ် ပါဝင်လေသည်။

သစ်တောများနှင့် မြေဆီလွှာသည် ကျွန်းကိုင်းမှီ၊ ကိုင်းကျွန်းမှီဟူသကဲ့သို့ အပြန်အလှန် အမှီသဟဲပြုနေကြရသည်။ သစ်တောမှ သစ်ပင်များသည် ယင်းတို့၏ အစာအာဟာရကို မြေဆီလွှာမှ ရရှိကြရသည်။ လေအဟုန်ကြောင့်၎င်း၊ မိုးရေတိုက်ရိုက်ကျခြင်းကြောင့်၎င်း၊ ရေစီးခြင်းကြောင့်၎င်း မြေဆီလွှာများ တိုက်စားခံရလေရာ ယင်းသို့ တိုက်စားခြင်း လျော့နည်းအောင် သစ်ပင် သစ်တောတို့က ထိန်းသိမ်းပေးကြသည်။ ရွာချလိုက်သော မိုးရေသည် မြေသို့ တိုက်ရိုက်မထိပဲ သစ်ရွက်သစ်ခက်များပေါ်မှ တဆင့်ကျရသဖြင့် အရှိန်မပြင်းတော့ချေ။ မြေပြင်ပေါ်တွင် ရေစီးခြင်းသည်လည်း ခလုတ်သဖွယ် ဖြစ်သော သစ်ပင်များရှိနေသဖြင့်၎င်း၊ သစ်ပင်အမြစ်များသို့ စီးဝင်သွားခြင်းကြောင့်၎င်း ရေစီးအရှိန် မသန်တော့ချေ။ လေပြင်းတိုက်ခတ်၍ မြေမှုန်များ လွင့်ခြင်းသည်လည်း သစ်ပင်သစ်တောများရှိက လေကတုတ်သဖွယ် ကာကွယ်ထားနိုင်သဖြင့် မြေကို လေဖြင့် တိုက်စားမှုနည်းပါးလေသည်။ အိန္ဒိယနိုင်ငံနှင့် အမေရိကန်ပြည်ထောင်စုတို့တွင် သစ်တောများ မရှိသည့် အချို့ဒေသများ၌ မြေတိုက်စားသည့် ပြဿနာသည် အကြီးအကျယ်ဖြစ်နေသည်။ မြေတိုက်စားမှု များပြားလာက မြေဩဇာ ညံ့ဖျင်းကုန်ခန်းလာသဖြင့် စိုက်ပျိုးရေး မအောင်မြင် ဖြစ်ကာ အသီးအနှံထွက် ဆုတ်ယုတ်သောကြောင့် ထိုပြဿနာကို ငွေကြေး သိန်းသန်း အကုန်အကျခံလျက် ဖြေရှင်းနေကြရသည်။ ပြည်ထောင်စု မြန်မာနိုင်ငံ၌လည်း ရှမ်းပြည်နယ်တွင် ရွှေပြောင်း တောင်ယာ လုပ်ငန်းအတွက် သစ်တောများကို စည်းမဲ့ကမ်းမဲ့ ခုတ်ထွင်ခဲ့ကြသဖြင့် သစ်တောများ ပြုန်းခဲ့လေရာ မြေဆီလွှာတိုက်စားခြင်း များပြားလာသဖြင့် သိန်းသောင်းမကသော မြေဧကပေါင်း များစွာတို့သည် စိုက်ပျိုး၍ မဖြစ်ထွန်းနိုင်သော မြေပျက်မြေကောများ ဖြစ်သွားကြလေသည်။

သစ်တောများသည် ရေကိုလည်း ထိန်းသိမ်းသိုလှောင်ပေးသည်။ သစ်တောများ အကာအကွယ်ရှိသည့်အတွက် မိုးရေတို့သည် မြေပေါ်တွင် စီးသွားခြင်း နည်းပါးကာ အမြစ်များမှတဆင့် မြေထဲသို့ စိမ့်ဝင်ကြသည်။ ယင်းသို့ဖြင့် စမ်းရေပေါက်များ၊ စမ်းချောင်းများ၊ ရေတွင်းများအတွက် သစ်တောများက ရေသိုလှောင်ပေးလေသည်။ မိုးရွာစဉ်သာ ရေရှိ၍ မိုးကုန်လျှင် ရေပြတ်သော ချောင်းများ၊ တနှစ်ပတ်လုံး ရေမပြတ်သည့် ချောင်းများသည် မိမိတို့ မြစ်ဖျားခံရာ တောတောင်များ၏ အခြေအနေကိုမှီ၍ ဖြစ်ကြရသည်။ ထို့ကြောင့် မြစ်ဖျား၊ ချောင်းဖျားရှိ သစ်တောများကို သီးသန့် ကာကွယ်ကြရသည်။ သစ်ပင်များမရှိက စိုက်ပျိုးပြုစုရသည်။ သစ်တောများကို အရမ်းမဲ့ခုတ်က ချောင်းများ စမ်းများ ခန်းခြောက်သွားသည်။ ပုပ္ပားတောင် ပတ်ဝန်းကျင်တွင် ရှေးက စမ်းပေါင်း ၃၀ မျှရှိခဲ့သော်လည်း တောင်စွယ်မှ သစ်တောများကို ခုတ်ထွင်ခဲ့ကြခြင်းကြောင့် ယခုအခါ စမ်းရေပေါက် ကိုးခုသာ ရှိတော့ခြင်းသည် သာဓကတရပ် ဖြစ်ပေသည်။ အချို့ဒေသတွင် ယင်းသို့ စမ်းများ ချောင်းများ ခန်းခြောက်သွားသဖြင့် ရွာများပင် ရွှေ့ပြောင်းကြရလေသည်။

လေ ပြင်းထန်ပါက အပင်များ၏ အဖူး၊ အငုံ၊ အပွင့် အသီးတို့ ကြွေကျကုန်ကြသဖြင့် အသီးတင်သင့်သလောက် မတင်နိုင်ချေ။ အနောက်နိုင်ငံ သစ်သီးခြံကြီးများတွင် လေ၏ ဖျက်ဆီးမှုကြောင့် အသီးများ ကြွေခြင်းကို ကာကွယ်ရန် သစ်ပင်ကြီးများကို သစ်သီးခြံများ၏ ပတ်လည်တွင် စိုက်ပျိုးထားကြရသည်။ ထို့ပြင် လေသည် လဟာပြင်ကို ဖြတ်လာရလျှင် ပို၍ အရှိန်ပြင်းထန်သဖြင့် ကနေဒါနိုင်ငံ ပရယ်ရီမြက်ခင်းဒေသ၊ ဆိုဗီယက်ယူနီယံ စတက် မြက်ခင်းဒေသတို့၌ လယ်ယာအိမ်ခြေတို့ကို လေပြင်းဒဏ်မှ ကာကွယ်ရန် လေကာတုတ်သဖွယ် လေကာသစ်ပင်တန်းကြီးများ စိုက်ပျိုးထားကြရသည်။

မြစ်ချောင်းများ၏အထက်ပိုင်း ရေဆင်းဒေသများတွင် သစ်တောများ ရှိနေပါက ရေတိုက်စားမှု နည်းပါးသဖြင့် အင်း အိုင် ရေကန်များအတွင်းသို့ ထိုမြစ်ချောင်းများ စီးဝင်သောအခါ အနည်အနှစ် အနည်းငယ်သာ ပါလေသည်။ မြစ်ဖျားချောင်းဖျား၌ သစ်တော မရှိလျှင် ရေတိုက်စားမှု များပြားသဖြင့် အနည်အနှစ် အများအပြား ပါလာရာ ထိုမြစ်ချောင်းများ စီးဝင်သော အင်း အိုင် ရေကန်တို့တွင် အနည်ပို့ချမှု များပြားသောကြောင့် မကြာမီ ရေတိမ်လာရာမှ တဖြည်းဖြည်း ကောလာကြသည်။ ယင်းသို့ အင်း အိုင် ရေကန်တို့တွင် အနည်ပို့ချမှု များပြား၍ ကော လာပုံကို မိတ္ထီလာကန်ကြီး၌ တွေ့မြင်နိုင်ပေသည်။

မြေဆီလွှာ တိုက်စားမှု များပြား၍ မြစ်ချောင်းများတွင် အနည်အနှစ် များလာလျှင် ရေစီးရေလာလည်း မမှန်တော့ချေ။ မြစ်များတွင် သောင်ထွန်းခြင်း၊ သင်္ဘောဆိပ်များ ပျက်စီးခြင်းဖြစ်ရသည်။ အမေရိကန် ပြည်ထောင်စု၊ စိန့်ဂျိုးဇက်မြစ်ဝတွင် တည်ရှိသော ဗင်တန် သင်္ဘောဆိပ်သည် ဤနည်းအားဖြင့် ပျက်စီးလာသောကြောင့် ငွေကြေးများစွာ အကုန်အကျခံ၍ ပြုပြင်ခဲ့ရလေသည်။

သစ်တောများ၏ ကျေးဇူးပြုပုံကား ဤမျှသာ မဟုတ်သေးချေ။ မြို့ကြီးပြကြီးများရှိ တိုက်တာနေအိမ်၊ မိုးမျှော်



မြန်မာနိုင်ငံသစ်တော၏ ရှုခင်းတစိတ်တဒေသ

အဆောက်အအုံကြီးများမှအစ ကျေးရွာ ဇနပုဒ်ရှိ တဲပုတ်များတိုင်အောင် သစ်တောများမှ ထွက်သည့် သစ်ဝါးတို့ မပါလျှင် မပြီးနိုင်ချေ။ လူတို့ စားသောက် သုံးဆောင်ကြသော အစာအာဟာရများတွင်ရင်း၊ ဆေးဝါးများတွင်ရင်း သစ်သီး၊ သစ်ဥ၊ သစ်ဖု၊ သစ်ရွက်၊ သစ်မြစ်များသည် အရေးပါသော အပိုင်းကဏ္ဍမှ ပါဝင်ကြသည်။ သစ်စေး သစ်ဆီ သစ်ရည်တို့သည်လည်း အရောင်တင်ဆီ၊ ကော်စသည့် လူ့အသုံးအဆောင် ပစ္စည်းများ လုပ်ကိုင်သည့် လုပ်ငန်းများ၌ ပဓာနထား၍ အသုံးပြုရသော သစ်တောထွက်ပစ္စည်းများ ဖြစ်ကြပေသည်။ ယခုအခါ အလွန်ခေတ်စားထင်ရှားနေသော ပလပ်စတစ် လုပ်ငန်းတွင် ထည့်သွင်းအသုံးပြုကြရသည့် ဆဲလျူလို့သည် သစ်ပင်မှ ထုတ်ယူရရှိသော ပစ္စည်းတရပ် ဖြစ်ပေသည်။ (ပလပ်စတစ်—လည်းရှု။)

ယဉ်ကျေးမှုသည်လည်း တစိတ်တဒေသအားဖြင့် သစ်တောနှင့် ဆက်စပ်နေသည်ဆိုက မမှားနိုင်ချေ။ မြန်မာ့ယဉ်ကျေးမှုတရပ်ဖြစ်သော ပန်းပု အတတ်သည် ကျွန်းသစ် အစရှိသော သစ်ကောင်းများဖြင့် ပြုလုပ်ရသည်။ သစ်တောများမှ ထွက်ရှိသော ဝါးဖြင့် ပြုလုပ်၍ သစ်စေးသုတ်ထားသည့် ယွန်းထည်များသည်လည်း ယဉ်ကျေးမှု ပစ္စည်းများ ဖြစ်ကြလေသည်။

သစ်တောများမှ လူသုံး ပစ္စည်းများကို ရရှိနိုင်သဖြင့် ပြည်တွင်းသုံး ပစ္စည်းများ ထုတ်လုပ်နိုင်ခြင်း၊ နိုင်ငံခြားသို့ သစ်များ တင်ပို့ရောင်းချနိုင်ခြင်းတို့ကြောင့် သစ်တောများသည် တိုင်းပြည်၏ ဝင်ငွေကို တိုးတက် တောင့်တင်းစေသည်။ သာဓကအားဖြင့် ပြရမည်ဆိုလျှင် မြန်မာနိုင်ငံ၏ အဓိကထွက်ကုန်များတွင် သစ်သည်တခါတရံ ဒုတိယ၊ တခါတရံ တတိယ ဝင်ငွေအကောင်းဆုံးပစ္စည်း ဖြစ်လေသည်။

သစ်တောများ၏ အသုံးဝင်ပုံ တရပ်မှာ မြို့ကြီးပြကြီးများ၌ နေထိုင်ကြသူများသည် မိမိတို့၏ ပတ်ဝန်းကျင်ကို ငြီးငွေ့လာသည့်အခါ သစ်တောများသည် အပန်းဖြေအနားယူရာ စခန်းများလည်း ဖြစ်ကြပေသည်။ နိုင်ငံကြီးများ၌

သစ်တောကြီးများအတွင်းတွင် ဆိုခဲ့သော အပန်းဖြေ စခန်းများ ထားရှိရာ သစ်တောကြီးများ၏ သာယာချမ်းမြေ့သော ရိပ်မြုံကို ကိုယ်စိတ်ပင်ပန်းလာသူများအား ခံစားစေ၍ အပန်းပြေစေလေသည်။

ရှားပါး၍ အဖိုးတန်သော သားရဲတိရစ္ဆာန်နှင့် ကျေးငှက်တို့ ခိုမှီးရာဖြစ်သော သစ်တောအချို့ကို ဘေးမဲ့ ကြိုးဝိုင်း သစ်တောများအဖြစ် သတ်မှတ်ပေးထားခြင်းဖြင့် ရှားပါးသော ကျေးငှက်နှင့် တိရစ္ဆာန်များ မျိုးပြုန်းခြင်းမှ ကာကွယ်ပေးသည့်ပြင် သိပ္ပံပညာဆိုင်ရာ သုတေသန လုပ်ငန်းများအတွက်လည်း များစွာ အထောက်အကူ ပြုပေသည်။

သစ်တောများသည် ကမ္ဘာဦး ခေတ်ကပင် ရှိခဲ့၍ ပင်လယ် သမုဒ္ဒရာတို့မှလွဲလျှင် ကမ္ဘာမြေပြင်သည် ယေဘုယျအားဖြင့် သစ်တောများဖြင့်သာ ဖုံးလွှမ်းလျက် ရှိခဲ့သည်။ လူနေမှုအဆင့်အတန်း တိုးတက်လာသောအခါ သစ်တောများကို တဖြည်းဖြည်း ခုတ်ထွင်ရှင်းလင်း၍ အိုးအိမ်တည်ဆောက်ကြသည်။ ထွန်ယက်စိုက်ပျိုးခြင်းကိုလည်း ပြုကြလေသည်။ သစ်တောထွက် ပစ္စည်းများ၏ အသုံးဝင်ပုံ၊ အဖိုးတန်ပုံကို တစတစ သိရှိလာကြ၍ သစ်တောရှိ သစ်ပင်များကို ခုတ်ယူ အသုံးပြုမှုလည်း များပြားလာသဖြင့် သစ်တောများ တရွေ့ရွေ့နည်းပါးလာလေသည်။ ထိုအခါ သစ်တောများ၏ အကျိုးပြုပုံများကိုလည်း သိရှိလာကြသဖြင့် သစ်တောများကို စည်းမဲ့ကမ်းမဲ့ အရမ်းခုတ်ထွင်ခြင်းမှ ကာကွယ်ထိန်းသိမ်းရေးကိုလည်း ဆောင်ရွက်လာကြလေသည်။

ဝင်ရိုးစွန်းဒေသများမှလွဲလျှင် ကမ္ဘာပေါ်၌ မြေဧက ၁၆ ရာခိုင်နှုန်းသည် သစ်တောများ ဖြစ်သည်။ တကမ္ဘာလုံးရှိ သစ်တောများ၏ စုစုပေါင်း အကျယ်အဝန်းသည် ဧကသန်းပေါင်း ၇,၅၀၀ ရှိသည်ဟု ဆိုကြသည်။ အာရှတိုက်၌ သစ်တော ဧရိယာသည် ဧက သန်းပေါင်း ၂,၀၉၆၊တောင်အမေရိကတိုက်၌ ၂,၀၉၃၊မြောက်အမေရိကတိုက်၌ ၁,၄၄၄၊အာဖရိကတိုက်၌ ၇၉၇၊ ဩစတြေးလီးယားနှင့် အိုရှန်နီးယား (မလ္လာယု၊ ဖိလစ်ပိုင် စသည်တို့ ပါဝင်သော တောင်ပစိဖိတ် သမုဒ္ဒရာအတွင်းရှိ ကျွန်းများ)၌ ၂၇၃ ဖြစ်လေသည်။

သစ်တောများသည် ပေါက်ရောက်ရာဒေသ၏ အပူချိန်၊ မိုးရေချိန်၊ ကုန်းမြေအနိမ့်အမြင့်၊ မြေဆီလွှာနှင့် အောက်ခံကျောက်မြေ အမျိုးအစားကို လိုက်၍ ကမ္ဘာမြေပေါ်တွင် သစ်တော အမျိုးမျိုးအစားစား ကွဲပြားပေါက်ရောက်လေသည်။ အချို့တိုင်းပြည်ဒေသတို့၏ သစ်တောများတွင် တတောလုံး၌ သစ်ပင်တမျိုးတည်းသာ ပေါက်ရောက်သော်လည်း မြန်မာနိုင်ငံကဲ့သို့သော အချို့တိုင်းပြည်များ၏သစ်တောများတွင်မူ သစ်တောတတောတည်း၌ သစ်ပင်အမျိုးအစား အတော် စုံလင်စွာ တွေ့ကြရလေသည်။

ကမ္ဘာ့သစ်တောများ အမျိုးမျိုးအစားစားရှိသည့် အနက် အကြမ်းဖျင်းအားဖြင့် လေးမျိုး ခွဲခြားနိုင်သည်။ယင်းတို့ကား (၁)ကွန်နီဖားတော၊ (၂)ရွက်ပြတ်တော၊ (၃) ရွက်ထူတောနှင့် (၄)တောစိုဟူ၍ ဖြစ်သည်။

ကွန်နီဖား တောများတွင် ထင်းရှူးပင်အမျိုးမျိုးအစားစားတို့ ပေါက်ရောက်သည်။ များသောအားဖြင့် အရွက်တို့သည် အပ်ချောင်းကဲ့သို့ သေးမျှင်သည်။ အရွက်များသည် နှစ်နှစ်တခါ၊ သုံးနှစ်တခါ ကြွေကျလေ့ရှိ၍ သစ်ပင်သည် အရွက် လုံးဝမရှိသည့်အချိန် မရှိပဲ စိမ်းလန်းနေသဖြင့် သမပိုင်းဒေသ အမြဲစိမ်းတောဟုလည်း ခေါ်ဆိုလေ့ရှိသည်။ ထိုတောမျိုးမှ အပင်တို့၏ အသီးများသည် 'ကုန်း'ဟုခေါ်သော အပေါ်ကား အောက်ရှူးသည့် ကတော့ပုံ အသီးမျိုး ဖြစ်ကြပြီးလျှင် များသောအားဖြင့် မျိုးစေ့ဖော် အစေ့မျိုးရှိကြသည်။ ထိုအပင်မျိုးတို့၏ သစ်သားသည် အသားပွ၍ အဖိုးတန်သစ်များမဟုတ်ချေ။ ထင်းရှူးတောတို့သည် အအေးဒဏ်ခံနိုင်ရည် ရှိကြသဖြင့် တောင်ကုန်းဒေသနှင့် အအေးပိုင်းဒေသများ၌ တွေ့ရှိကြရာ၊ မြောက်အမေရိကတိုက်ရှိ ကနေဒါနိုင်ငံ အရှေ့နှင့်အနောက် ကမ်းရိုးတန်းဒေသများ၌၎င်း၊ ဥရောပနှင့် အာရှတိုက် မြောက်ဖက်ပိုင်းဖြစ်သော ယူရေးရှား၌၎င်း ပေါက်ရောက်လေသည်။

ရွက်ပြတ်တော အမျိုးမျိုးရှိသည့်အနက် သမပိုင်းဒေသများ၌ ပေါက်ရောက်သော ရွက်ပြတ်တောများရှိ အပင်များသည် ဆောင်းရာသီ၌ အရွက်ကြွေ၍ ထိုအပင်များမှ သစ်မာမျိုးကို ရနိုင်သည်။ ထင်းရှူးပင်များနှင့် နှိုင်းစာလျှင် အပင်ပေါက်နွေး၍ အအေးဒဏ်ကို ခံနိုင်ရည် မရှိလှချေ။သမပိုင်းဒေသ ရွက်ပြတ်တောမျိုးကို ဥရောပအနောက်ပိုင်း၊ အာရှတိုက် အရှေ့ပိုင်းနှင့် မြောက်အမေရိကတိုက် အရှေ့ပိုင်းတို့၌ တွေ့ရလေသည်။

မုတ်သုန်တောများမှာ အပူပိုင်းဒေသရှိ ရွက်ပြတ်တောများဖြစ်၍ ထိုတောများရှိ အပင်များသည် နွေရာသီ၌ အရွက်ကြွေလေ့ရှိသည်။ ယင်းတို့သည် ကာလအပိုင်းအခြားဖြင့် မိုး များပြားစွာ ရွာသွန်းသော ဒေသများဖြစ်သည့် အိန္ဒိယနိုင်ငံမြောက်ပိုင်း၊ မြန်မာနိုင်ငံ၊ ဩစတြေးလီးယားတိုက်၏ ဦးချိုနှစ်ခုနှင့်တူသော မြောက်ဖက်စွန်း နှစ်စွန်းနှင့် အာဖရိကတိုက်၏ အနောက်ဖက် ကမ်းရိုးတန်း တစိတ်တဒေသတို့၌ ပေါက်ရောက်ကြသည်။ ထိုတောမျိုးတွင် အီကွေတာ သစ်တောများနှင့် အနည်းငယ် ခြားနားချက်မှာ သစ်ပင်ကြီးများ အလွန်မမြင့်မားလှခြင်း၊ မြန်မာကျွန်းပင်နှင့် ကုလားအင်ကြင်းတို့ကဲ့သို့ နွေရာသီ၌ အရွက်ကြွေခြင်း၊ ချုံနွယ် ပိတ်ပေါင်း နည်းပါး၍ လူသူ အရောက်အပေါက် မနည်းလှခြင်းတို့ဖြစ်၏။ ထိုတောများတွင် စားပင်များလည်း ပေါက်ရောက်လေသည်။

ရွက်ထူတောများကို ဆောင်းတွင်း မိုးရွာ၍ နွေရာသီ၌

ခြောက်သွေ့သော မြေထဲပင်လယ်ကမ်းရိုးတန်းဒေသ၊ ချီလီ စသည့် နိုင်ငံတို့၌ ပေါက်ရောက်သည်ကို တွေ့ကြရသည်။ ပေါက်ရောက်သော အပင်များ၏ အရွက်များသည် မာ ကျော ထူထဲပြီးလျှင် အရွက်မကြွေပဲ အမြဲစိမ်းနေသည်။ မိုးခေါင်သည့်ဒဏ်ကိုလည်း ခံနိုင်ရည်ရှိလေသည်။

တောစိမ့်များသည် မိုးများပြားသည့် အီကွေတာနှင့် အပူပိုင်း ဇုန် ဒေသများ ဖြစ်သော မက္ကဆီကို၊ အမေရိကတိုက် အလယ်ပိုင်း၊ အရှေ့အိန္ဒိယကျွန်းစု၊ အမ္ဗဇုန်နှင့် ကွန်ဂိုမြစ် ဝှမ်းတို့၌ ပေါက်သည်။ ထိုတောများတွင် သစ်ပင် အမျိုး အမည်များစွာ ရောနှော ပေါက်သည်သာမက ကြိမ်တော ဝါးတောများလည်း ပါဝင်သေးသည်။ ထိုတောမျိုးတွင် အောက်ပေါင်းရှုပ်၍ နွယ်ပင်ပေါသည်။ သစ်ပင်များ အ လွန်ကြီးမား၍ ပေ ၁၅၀ ထက် မြင့်သည့် အပင်ကြီးများ ပေါက်ရောက်သည်။ မြစ်ပျဉ်းရှိသော အပင်ကြီးမျိုးလည်း များပြားသည်။ အရွက်များ ထူထပ်သိပ်သည်းစွာ ပေါက် ရောက်သဖြင့် နေရောင်မသန်းနိုင်အောင် ထူထပ်ပိတ်ဆီး သော စိမ့်ကြီးမြိုင်ကြီးများလည်း ဖြစ်၍ အပူပိုင်းဒေသ အမြဲစိမ်းတောဟုလည်း ခေါ်ဆိုလေ့ရှိကြသည်။ ထိုတော စိုမျိုးသည် ဆင်၊ ကျား၊ ကျားသစ်၊ ကြံ့၊ တောဝက်၊ ဝက်ဝံ၊ မျောက် စသော သားရဲတိရစ္ဆာန်များ ခိုအောင်း ရာလည်း ဖြစ်လေသည်။

သမပိုင်းနှင့် အပူပိုင်းစပ်ကြားဒေသများ၌ ပေါက်ရောက် သော သစ်တောများလည်းရှိသေးသည်။ ထိုဒေသများတွင် ကွန်နီဖားတောနှင့် ရွက်ပြတ်တောများ၊ အောက်ပေါင်းရှုပ် သောတောများကို ရောနှောတွေ့ကြရသည်။ မြောက်အမေ ရိကတိုက်တွင် ထိုတောမျိုးသည် ရွက်ပြတ်တော ဒေသ၏ အရှေ့တောင်နယ်နိမိတ်အစပ်၌ ပေါက်ရောက်သည်။ ဂျပန် နိုင်ငံတောင်ပိုင်းတွင် ထင်းရှူး၊ ဝက်သစ်ချနှင့် တတိုင်းမွှေး တို့ကဲ့သို့ အမြဲစိမ်းနှင့်ရွက်ပြတ်ပင်တို့ ရောနှောပေါက်ရောက် သည့် အောက်ပေါင်းရှုပ်သောတောမျိုးကို တွေ့ကြရသည်။

မြောက်အမေရိကတိုက်တွင် ကနေဒါနိုင်ငံသည် သစ် ထွက်အများဆုံးဖြစ်သည်။ ထိုနိုင်ငံတွင် သစ်တော ကေ သန်းပေါင်း ၇၀၀ ရှိသည်။ ထိုသစ်တောဧရိယာတဝက်ခန့်မှ ထွက်သောသစ်နှင့်သစ်ပျော့ဖတ်များကိုနိုင်ငံတွင်းသုံးအပြင် အမေရိကန်ပြည်ထောင်စုသို့ တင်ပို့ရလေသည်။ အမေရိကန် ပြည်ထောင်စုတွင် သစ်ထုတ်လုပ်လျက်ရှိသော သစ်တော များ၏ ကေသည် ၄၆၁ သန်း ဖြစ်သည်။ အလာစကာ ပြည်နယ်၏ သစ်တော ဧရိယာသည် ကေ ၉၅ သန်းရှိ သည်။ သို့သော် ထူထပ်သောသစ်တောများ မဟုတ်ချေ။ အရှေ့တောင်ပိုင်းတွင်မူ သစ်ထုတ်လုပ်ခြင်း မပြုရသေးသော ထင်းရှူးတောများ ထူထပ်စွာ ရှိလေသည်။ အမေရိကန် ပြည်ထောင်စုသည် သစ်တောများကို အသုံးများလွန်းသ ဖြင့် ယခုအခါ သစ်တောထိန်းသိမ်းစောင့်ရှောက်ရေး၊ စိုက် ပျိုးပြုစုရေးတို့ကို ဂရုတစိုက် ဆောင်ရွက်နေကြရလေသည်။

အာဖရိကတိုက် တောင်ပိုင်းတွင် မြေကေ ၄၅ ရာခိုင်နှုန်း သည် သစ်တောဖြစ်သည်။ ထိုတိုက်ရှိနိုင်ငံအများတွင် ပြည် တွင်းသုံးအတွက် သစ်အလုံအလောက်ရရှိရုံသာမက နိုင်ငံ ခြားသို့ပင် တင်ပို့ရောင်းချရလေသည်။

အခြားတိုက်ကြီးများနှင့်နှိုင်းစာလျှင် အာဖရိကတိုက်၏ သစ်တောဧရိယာသည် နည်းနေသည်။ အမေရိကန် ပြည် ထောင်စု နီးပါးရှိသော ဆဟာရား သဲကန္တာရကြီးတွင် သစ်တောများမရှိချေ။ ကွန်ဂိုမြစ်ဝှမ်းမှာမူ သစ်တော ထူ ထပ်သည်။ အာဖရိက မဟောဂနီနှင့် အခြား အဖိုးတန် သစ်မာများထွက်သည်။ မဟောဂနီအစစ်ကို အနောက်အိန္ဒိ ယကျွန်းစုနှင့် အမေရိကတိုက် အလယ်ပိုင်းဒေသများမှသာ ရရှိနိုင်လေသည်။

ဥရောပတိုက်တွင် ဖင်းလန်နိုင်ငံ၊ ဆွီဒင်နိုင်ငံ၊ ဥရောပ ဖက်ကျသော ဆိုဗီယက်ယူနီယံတို့သည် သစ်တော ထူထပ် သောဒေသများဖြစ်သည်။ ဆိုဗီယက်ယူနီယံတွင် သစ်တော ကေသန်းပေါင်း ၄၀၀ ကျော်ရှိသည်။ သို့သော် မြောက်ဖက် ပိုင်းမှ သစ်တောများသည် လူသူပေါက်ရောက်ရန် ခဲယဉ်း လေသည်။ ဖင်းလန်နိုင်ငံနှင့် ဆွီဒင်နိုင်ငံတို့သည် သစ်အများ အပြားထုတ်လုပ်နိုင်၍ ဥရောပတတိုက်လုံးအတွက် ထိုနှစ် နိုင်ငံက သစ်များတင်ပို့နိုင်သည်။ ဖင်းလန်နိုင်ငံ၏ မြေကေ ၆၀ ရာခိုင်နှုန်းသည်၎င်း၊ ဆွီဒင်နိုင်ငံ၏ မြေကေ ၄၅ ရာခိုင် နှုန်းသည်၎င်း သစ်တောများဖြစ်လေသည်။

အာရှတိုက်၏ မြေကေ ၂၁ ရာခိုင်နှုန်းသာလျှင် သစ် တောများဖြစ်၍ သစ်တောနည်းပါးသည်။ ရှေးရှေးအခါကမူ သစ်တောထူထပ်ပေါများခဲ့ဘူးသည်ဟု ဆိုကြသည်။ အချို့ ဒေသများတွင် ရေကြီးခြင်း၊ အချို့ဒေသများတွင် ရေရှား ခြင်းကြောင့် ယင်းသို့ သစ်တောများ ပါးရှားသွားရသည်ဟု အချို့က ယူဆကြသည်။ ဆိုက်ဗီးရီးယားဒေသတွင် သစ် တောကေ သန်းပေါင်းများစွာရှိသော်လည်း တောမထူသည့် ပြင် လူနေဒေသနှင့်ဝေးကွာလှ၍ သစ်ထုတ်လုပ်ရန် ခဲယဉ်း လေသည်။

ကမ္ဘာပေါ်တွင် သစ်တော အထူထပ်ဆုံးဒေသများမှာ တောင်အမေရိကတိုက်၏ အမ္ဗဇုန်မြစ်ဝှမ်းနှင့် အာဖရိက တိုက်၏ ကွန်ဂိုမြစ်ဝှမ်းတို့ ဖြစ်ကြသည်။ ထိုဒေသများတွင် ရာသီဥတု ပူအိုက်စိုစွတ်သဖြင့် အီကွေတာ သစ်တောကြီး များပေါက်ရောက်သည်။ သစ်ပင်ကြီးများ အလွန်ကြီးထွား လှယ်၍ တောထူထပ်လှသဖြင့် နေပြောက်မထိုးနိုင်သော တောကြီးမျက်မည်းများဖြစ်ကြလေသည်။

ရှေးရှေးအခါကသစ်တောများ အလွန်ပေါများ၍ အခမဲ့ ခုတ်ယူနိုင်ကြသဖြင့် လူတို့သည် စည်းကမ်းမဲ့ ခုတ်ထွင်ခဲ့

ကြသည်။ သစ်တောထွက် ပစ္စည်းများကိုလည်း တစတစ အသုံးအစွဲ ပို၍များခဲ့ကြသည်။ သစ်ပင်များကို စည်းကမ်းမဲ့ ခုတ်ကြခြင်း၊ လယ်ယာနှင့် အိုးအိမ်ထူထောင်ရန်အတွက် သစ်တောများကို ခုတ်ထွင်ခြင်းတို့ကြောင့် သစ်တောများ ပါးလာသည်။ အချို့လူများ၏ အယူအဆမှာ သစ်တော များသည် ရေမြေနှင့် မိုးလေဝသကောင်းက သဘာဝအ လျောက် ပေါက်ရောက်နိုင်ကြသဖြင့် ပြုပြင်ရန်မလိုဟု ထင် မြင်ကြသည်။ သဘာဝအလျောက် ပေါက်ရောက်တိုးပွား ခြင်းနှင့် သေကြေပျက်စီးခြင်း ညီမျှနေက သစ်တောများ မပြုန်းနိုင်သေးချေ။ သို့သော် သစ်တောထွက် ပစ္စည်းများ ကို လူတို့ အသုံးပြုရန် ပြည်တွင်းပြည်ပ ရောင်းဝယ်ခြင်း၊ လူဦးရေတိုးပွားလာသဖြင့် မြို့ရွာ အိုးအိမ်ချဲ့ထွင်ခြင်း၊ လယ် ယာတိုးချဲ့လုပ်ကိုင်ခြင်းတို့အလွန်များပြားလာအဖြင့် ပေါက် ရောက်မှုနှင့် ထုတ်ယူသုံးစွဲမှု မညီမမျှ ဖြစ်လာသည်။ သစ် တောများသည်လည်း လူတို့အတွက် မရှိမဖြစ်တော့ချေ။ ထို့ကြောင့် သစ်တောများကို ကာကွယ် ထိန်းသိမ်းစောင့် ရှောက် အုပ်ချုပ်ရန် ဆောင်ရွက်လာကြရလေသည်။ ထို နောက်တွင် သစ်တောများကို ကာကွယ် ထိန်းသိမ်းရုံနှင့် မပြီးသေး။ သစ်ပင်များ သဘာဝအလျောက် ပြန်ပေါက် ခြင်းနှင့် မလုံလောက်လျှင် တိုးတက်ပေါက်ပွားစေဖို့ အကူ အညီပေးရန် လိုအပ်ကြောင်းကိုလည်းသိမြင်လာကြသည်။ ထို့ကြောင့် သစ်တောအုပ်ချုပ်ရေးကို ဆောင်ရွက်လာကြ ပြီးလျှင် သစ်တော ဥပဒေများ ပြုလုပ်ခြင်း၊ ကြိုးဝိုင်း သစ်တောများ ပြုလုပ်ခြင်း၊ သစ်တော စိုက်ပျိုးပြုစုခြင်း တို့ကိုလည်း လုပ်ကိုင်ခဲ့ကြလေသည်။

သစ်ပင်များသည်အသုံးချနိုင်သည့်အရွယ်ရောက်အောင် နှစ်ပေါင်း ၆၀ မှ ၁၅၀ ခန့်အထိ ကြာမြင့်သဖြင့် ယင်းတို့ကို ကာကွယ်ထိန်းသိမ်းရန် လိုအပ်သည်။ ကာကွယ်ရန် လိုအပ် သော သစ်တောများကို ကြိုးဝိုင်းသစ်တောဟူ၍ သတ်မှတ် ထားရသည်။ ကြိုးဝိုင်းသစ်တောဟူသည်မှာ သစ်တော ထိန်းသိမ်းရေးနှင့် အုပ်ချုပ်ရေးအတွက်လွယ်ကူစေရန် ကြိုး ဝိုင်းနယ်နိမိတ်များတွင် သစ်ပင်များ၌ အထစ်ကြီးများထစ် ထားခြင်း၊ အစိုးရတံဆိပ်ရိုက်နှိပ်ထားခြင်း၊ ကြော်ငြာပြား ကပ်ခြင်း၊ နယ်နိမိတ်တိုင်များစိုက်ခြင်းတို့ဖြင့် အထင်အရှား နယ်နိမိတ် သတ်မှတ်ထားသော သစ်တောကို ခေါ်ဆိုသည်။ ကြိုးဝိုင်း သစ်တောများအတွင်းမှ အပင်များကို ဆိုင်ရာ အမိန့်တစုံတရာမရပဲ ခုတ်ယူခြင်းမပြုရန် ဥပဒေက တား မြစ်ထားလေသည်။

မြန်မာနိုင်ငံ သစ်တောများအတွင်း အဖိုးတန်သစ်ရရှိ သော ကျွန်း၊ ပျဉ်းကတိုး၊ ကညင်၊ သစ်ယာ၊ ပိတောက် စသည့် အပင်များကို ရွေးချယ် ထုတ်ယူပြီးလျှင် သဘာဝ မျိုးဆက်နည်း၊ ပဝတ္တိ မျိုးဆက်နည်းတို့ဖြင့် မျိုးမပြတ် အောင် ဆောင်ရွက်ရသည်။ ဒုတိယကမ္ဘာစစ်ကြီး မဖြစ် မီက သဘာဝမျိုးဆက်စိုက်ခင်းဧက ၆၇,၅၄၀ နှင့် ပဝတ္တိမျိုး ဆက်စိုက်ခင်းဧက ၁၃၇,၆၇၇ အသီးအသီးရှိခဲ့သော်လည်း စစ်ဘေးဒဏ်ကြောင့် များစွာ ပျက်စီးခဲ့ရသည်။ စိုက်ခင်း များတွင် မျိုးဆက်ခြင်းအောင်မြင်စေရန် အုပ်ဆိုင်းမိုးကာ နေသောအပင်များကိုခုတ်လှဲ၍ လင်းဖွင့်ခြင်း၊ မျိုးဆက်ပင် များသန်စွမ်းအောင် ပင်ကျပ်နုတ်ခြင်း၊ ရှင်းလင်းခြင်း၊ နွယ် ဖြတ်ခြင်း၊ ပေါင်းခုတ်ခြင်းများကို တော၏ အခြေအနေ အရ ဆောင်ရွက်ပေးခြင်းဖြင့် သစ်တော စိုက်ပျိုးပြုစုတည် ထောင်မှုကိုလည်း ပြုကြရလေသည်။

သစ်တော စိုက်ပျိုးပြုစုရေး၊ ထိန်းသိမ်း စောင့်ရှောက် ရေးတို့၌ အောင်မြင် ထိရောက်စွာ ဆောင်ရွက်နိုင်ရန်ငှာ၊ သစ်တောထွက် ပစ္စည်းများကို တန်ဖိုးရှိရှိနှင့် ပိုမိုထုတ်လုပ် နိုင်ရန်ငှာ သစ်တောသုတေသန ဌာနဟူ၍လည်း ထား ရှိရသည်။

မြန်မာနိုင်ငံတွင် ရှေးရှေးနှစ်ပေါင်းများစွာကပင် သစ် တောများမှ သစ်များ၊ အခြားသစ်တောထွက် ပစ္စည်းများ ကို ထုတ်ယူသုံးစွဲခဲ့ကြသော်လည်း သစ်တောထိန်းသိမ်း ကာ ကွယ်ရေးကိုမူ မပြုခဲ့ကြပေ။ ခရစ်နှစ် ၁၇၅၂ ခု အလောင်း မင်းတရား လက်ထက်တွင် ကျွန်းပင်ကို 'တော်ဝင်ပင်' ဟု ကျေညာ ထိန်းသိမ်းခြင်းပြုခဲ့၏။ သို့သော် သစ်တော များကို စံနစ်တကျထိန်းသိမ်းခြင်းကိုမူ နောက်မင်းအဆက် ဆက် လက်ထက်တို့တွင်လည်း ပြုခဲ့ဟန်မတူချေ။ မြန်မာနှင့် ဗြိတိသျှတို့အချင်းများကာ စစ်ပွဲသုံးကြိမ်တိုက်၍ နောက် ဆုံးတွင် မြန်မာနိုင်ငံပါအပ်လိုက်ရသော အင်္ဂလိပ်–မြန်မာ စစ်ပွဲများ ဖြစ်ရခြင်း၏ အကြောင်းတွင် သစ်တောများ၌ သစ်ခုတ်မှု၊ သစ်ထုတ်လုပ်မှုနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ၌ တည်ထောင်ထားသော ဗြိတိသျှတို့၏ ဘုံဘေဘားမား သစ် ကုမ္ပဏီနှင့် မြန်မာဘုရင် အစိုးရတို့ အငြင်းပွားမှုများသည် လည်း အချက်တရပ်အဖြစ် ပါဝင်ခဲ့လေသည်။ (မြန်မာ နိုင်ငံ သစ်တောများ — လည်းရှု။) ဗြိတိသျှတို့သည် ရခိုင် ပြည်နှင့်တနင်္သာရီကို ၁၈၂၆ ခုနှစ်တွင် သိမ်းပိုက်ပြီးနောက် မှစ၍ ကျွန်းပင်များကို ခုတ်လှဲ ထုတ်သုံး ခဲ့သည်။ ထိုအခါ ကျွန်းပင်များကို စံနစ်တကျ ခုတ်ယူခြင်း မပြုက ကျွန်းတောများ ပျက်စီးသည်ကို တွေ့ရှိလာကြသ ဖြင့် ၁၈၅၆ ခုနှစ်မှစ၍ သစ်တောများကို စည်းကမ်းတကျ အုပ်ချုပ်ရန် အုတ်မြစ်ချခဲ့သည်။ အဖိုးတန်သစ်များ ထုတ် ယူရေး ဥပဒေကို ၁၈၀၂ ခုနှစ်တွင် ရေးဆွဲခဲ့ကြလေသည်။

လူသားတို့သည် ဥပဒေဖြင့်ထိန်းသိမ်းမှုမရှိက သစ်တော များ၏ အဆိုးရွားဆုံးရန်သူများ ဖြစ်ကြပေသည်။ စည်းမဲ့ ကမ်းမဲ့ သစ်တောများကို ခုတ်လှဲခြင်းဖြင့် သစ်တောများ ကို ပြုန်းစေသည်သာမက တိုက်ရိုက်သော်ငှင်း၊ သွယ်ဝိုက်

၍သော်ငြင်း အခြားနည်း အမျိုးမျိုးဖြင့်လည်း သစ်တောများကို ဖျက်ဆီးနေကြလေသေးသည်။

မြန်မာနိုင်ငံ၌ ရွှေပြောင်း တောင်ယာ စိုက်ပျိုးခြင်း၊ ထုံးနှင့်မီးသွေးဖုတ်ခြင်း၊ အိမ်သုံးထင်းခုတ်ခြင်း၊ တိရစ္ဆာန်ထိန်းကျောင်းမှု များပြားခြင်းတို့ကြောင့်လည်း သစ်တောများ ပြုန်းတီးခဲ့ရသည်။ ထုံးဖုတ်ခြင်း၊ မီးသွေးဖုတ်ခြင်းစသည့်လုပ်ငန်းများအတွက်ငြင်း၊အိမ်သုံးအတွက်ငြင်း ထင်းအမြောက်အမြားကိုအသုံးပြုကြရာ ထင်းရရန်အတွက် သစ်ပင်များကို စည်းကမ်းမဲ့ ခုတ်ထွင်ကြလေသည်။ နှစ်ကာလကြာမြင့်စွာ အချိန်ယူ၍ ပေါက်ရောက်ခဲ့ရသော သစ်ပင်များသည် တရက်နှစ်ရက်အတွင်းပျက်စီးကြရသည်။ ထင်းခုတ်ယူသူတို့သည် အရွယ်မရင့်သေးသော အပင်များကိုခုတ်ခြင်း၊ အချို့အပင်များကို အမြစ်ပါတူးခြင်းပြုကြသောကြောင့် သစ်ပင်များတဖန်ပြန်ပေါက်ရန် ခဲယဉ်းသွားလေသည်။ ထိုကြောင့်ပင် မြန်မာနိုင်ငံ အလယ်ပိုင်း မိုးပါးရေရှားရပ်ဝန်းသည် တဖြည်းဖြည်း သဲကန္တာရ ဆံလာ၍ ရှမ်းပြည်နယ်တွင် ထိုနည်းများကြောင့် သစ်တောများ ပြုန်းလာသည်။ သစ်တော မရှိသော် မြေဆီလွှာ တိုက်စားမှုများပြားလာသဖြင့် ဧက သိန်းသန်း မျှသော မြေများမြေသြဇာခေါင်းပါး၍ မြေပျက်များဖြစ်ကုန်ရလေသည်။

ထို့ပြင် ကျွဲနွားတိရစ္ဆာန်များကိုသစ်တောများအတွင်းထိန်းကျောင်းသည့်အခါ တိရစ္ဆာန်များက သစ်ပင်အကိုင်းအခက်များကိုစားခြင်း၊ အခေါက်များကိုကိုက်ဖဲ့ခြင်း၊ တိုးဝှေ့သွားခြင်းတို့ကြောင့်လည်း သစ်ပင်များ သေကြေပျက်စီးကြရလေသည်။

ယင်းသို့ လူတို့၏ မြော်ခေါ်ထောက်ထားမှု ကင်းမဲ့ခြင်းတို့ကြောင့် သစ်တောများ ပျက်ပြုန်းရသည့်ပြင်၊ တောမီးလောင်ခြင်း၊ ပိုးကျခြင်း၊ သစ်ပင်ရောဂါ ကျရောက်ခြင်း၊ ချုံနွယ်ပိတ်ပေါင်း ထူထပ်ခြင်းတို့ကြောင့်လည်း သစ်တောများ ပျက်စီးကြရလေသည်။

တောမီးလောင်ခြင်းသည် သစ်တောများအကြီးအကျယ်ပျက်စီးစေနိုင်သော အကြောင်းတရပ် ဖြစ်သည်။ သစ်တောအတွင်း လေတိုက်ခတ်သဖြင့် သစ်ပင် တပင်နှင့်တပင်၊ ဝါးတလုံးနှင့်တလုံး ပွတ်တိုက်ရာမှ မီးပွင့်၍ မီးထတောက်ကာ တောမီးလောင်တတ်သည်။ သို့သော် ယင်းသို့သော သဘာဝကြောင့် မီးလောင်ရခြင်းမှာ နည်းပါးသည်။မြန်မာနိုင်ငံတွင် များသောအားဖြင့် သစ်တော အနီးအနားပတ်ဝန်းကျင်တွင် နေထိုင်သူများ၏ ပေါ့ဆမှုနှင့် နွေဦးပေါက်တွင် တောင်ယာ စိုက်ပျိုးရန်အတွက် မြေယာကွက်ရရန် သစ်တောများရှင်းလင်းမီးရှို့ခြင်း၊ အမဲလိုက်ရာတွင် မီးရှို့၍ ခြောက်လှန့်ခြင်းများမှ ကူးစက် လောင်ကျွမ်းမှုများပြားလေသည်။ နွေရာသီသို့ ကူးလာလျှင် သစ်တောတွင်းမှသစ်ပင်များ အရွက်ကြွေ၍ သစ်ပင်များသည်လည်း ခြောက်သွေ့သော အပိုင်းသို့ ကူးပြောင်းနေချိန် ဖြစ်ပေရာ မီးပွားကျရုံဖြင့် မီးလောင်နိုင်သည်။ သစ်တောများ မီးလောင်လျှင် ပျိုးပင်များ၊ အပင်ပျိုများ၊ အဖိုးတန်အရွယ်သင့် အပင်များမကျန် မီးသင့်ပျက်စီးကြရာ ထိုနေရာတွင် သစ်တောများမျိုးဆက်ပင် ပြတ်သွားနိုင်လေသည်။ အမေရိကန်ပြည်ထောင်စုတွင် တောမီးလောင်သဖြင့် တနှစ်တနှစ်တွင် အိမ်ခြေ ၈၆,၀၀၀ ခန့်ကို တည်ဆောက်နိုင်သော သစ်များဆုံးရှုံးရလေသည်။ ထိုကြောင့် တောမီးလောင်ခြင်းကို ကာကွယ်ငြိမ်းသတ်နိုင်ရန် ကြီးကြီးကျယ်ကျယ် စီစဉ်ထားရှိလေသည်။

ပိုးကျခြင်းကြောင့်လည်း သစ်တောများ ပျက်စီးကြရာ အမေရိကန်ပြည်ထောင်စုတွင် တနှစ်လျှင် ဒေါ်လာ သန်း ၁၀၀ မှ ၂၀၀ အတွင်းရှိသော သစ်များ ပျက်စီးရသည်။ အချို့ပိုးများသည် အဖူးအညွန့်တို့ကိုစားသည်။ အချို့ပိုးများသည် အခေါက်နှင့်ပင်စည်ကိုလိုက်၍စားသည်။ အချို့ပိုးများသည် ပင်စည်ကို ဝိုက်ပတ်၍ စားရာ သစ်ရည်ပို့ဆောင်ရေးလုပ်ငန်း ပျက်စီးသဖြင့် အပင် သေလေသည်။ သစ်ပင်ကို သင်းသတ် သကဲ့သို့ပေတည်း။ (သစ်ပင် — လည်းရှု။)

သစ်ပင်ရောဂါများကြောင့်လည်း သစ်ပင်များ သေကြသည်။ များသောအားဖြင့် သစ်ပင်များတွင် ဖြစ်ပွားလေ့ရှိသော ရောဂါတမျိုးမှာ မှိုစွဲခြင်းဖြစ်သည်။ ထို့ပြင် သစ်တောများအတွင်း ချုံနွယ်ပိတ်ပေါင်းများ ထူထပ်လျှင် သစ်ပင်များရှင်သန်ကြီးထွားရေးကို အနှောင့်အရှက်ဖြစ်စေကာ သစ်တောများကို တစတစ ပျက်စီးစေလေသည်။

လေသည် သစ်တောများ၏ ကြီးကျယ်သော ရန်သူကား မဟုတ်ပေ။ လေမုန်တိုင်း ဒဏ်ကြောင့် သစ်တောတခုလုံး ကျိုးပဲ့ပျက်စီးခြင်းကို ရံဖန်ရံခါ တွေ့ရှိရသော်လည်း များသောအားဖြင့် လေပြင်းတိုက်ခတ်သဖြင့် လဲကျအမြစ်ပြုတ်ရသော အပင်များသည် မသန်စွမ်းသော အပင်အိုအပင်နာများသာ ဖြစ်ကြသည်။ ထိုအပင်များလဲကျသဖြင့် သစ်တောအတွင်းရှိ အခြား သစ်ပင်များမှာ အလင်းရောင်နှင့်လေကို ပိုမိုရရှိနိုင်သေးသည်။ သစ်ပင်များ၏ ကြောက်စရာရန်သူတပါးကား မိုးကြိုးဖြစ်သည်။ မိုးကြိုးထိသော အပင်သည် ပြန်၍ မရှင်သန်နိုင်တော့ပဲ ထိုအပင်သာလျှင် မီးလောင်သည်သာမက အခြား အပင်များကိုပါ ကူးစက်လောင်ကျွမ်းနိုင်လေသည်။

သစ်တောများသည် စပါးသီးနှံတို့ကဲ့သို့ တနှစ်တကြိမ်အသစ်အသစ် စိုက်ပျိုးပြုစုရသည် မဟုတ်ပဲ သစ်တောထွက် ပစ္စည်းများမှ ဆိုင်ရာတိုင်းပြည်နိုင်ငံများအတွက် နှစ်စဉ် ဝင်ငွေမှန်မှန်ရရှိနိုင်စေသဖြင့် သစ်တောများ အလဟဿ

မပြုန်းတီး မပျက်စီးရလေအောင် စောင့်ရှောက်ထိန်းသိမ်းရန် လိုအပ်ပေသည်။ သစ်တောတခု ပြန်လည်ထူထောင်ရန်မှာ အနှစ် ၆၀ မှ ၁၅၀ အထိ ရှည်ကြာသော်လည်း ဖျက်ဆီးခုတ်လှဲရန်မှာ တရက်နှစ်ရက်မျှသာ ကြာ၍ မှားယွင်းစွာ ခုတ်လှဲမိပါက ဆွေစဉ်မျိုးဆက်အထိ အကျိုးယုတ်မှုကို ဖြစ်စေနိုင်သဖြင့် သစ်တောကာကွယ်ထိန်းသိမ်းရေးမှာ အထူးလိုအပ်လှပေသည်။

**သစ်တောရေး ဝန်ကြီးဌာန။** ။မြန်မာနိုင်ငံ၏ ရေိယာအကျယ်အဝန်း စုစုပေါင်း စတုရန်းမိုင် ၂၆၁,၇၆၀ ရှိသည့်အနက် ၅၅.၅ ရာခိုင်နှုန်း၊ သို့မဟုတ် ၁၄၅,၃၀၃ စတုရန်းမိုင်မှာ သစ်တောများ ဖြစ်ကြသည်။ ယင်းတို့အနက် ၃၄,၆၈၇ စတုရန်း မိုင်မှာ သစ်တောကြိုးဝိုင်းများ ဖြစ်၍ ၁၁၀,၆၁၆ စတုရန်းမိုင်မှာ ကြိုးပြင် သစ်တောများ ဖြစ်ကြသည်။ သစ်တောများပေါ်တွင် အဓိက မှီခိုနေရသည့် အားလျော်စွာ ပြည်ထောင်စု မြန်မာနိုင်ငံ၏ အစိုးရ ဝန်ကြီးဌာနတခု အနေဖြင့် စီမံအုပ်ချုပ်လေသည်။

သစ်တောများသည် တိုင်းပြည်၏ အဖိုးအနဂ္ဃ ထိုက်တန်သော သယံဇာတ ပစ္စည်းများ ဖြစ်ကြသည့်ပြင် ရာသီဥတုမျှတ မှန်ကန်ခြင်း၊ ရေဖူလုံအောင် ရရှိခြင်းနှင့် မြေဩဇာထိန်းသိမ်းခြင်း စသည်တို့အတွက် ထိန်းသိမ်း ကာကွယ်နိုင်သော အကျိုးကျေးဇူးများ ရှိသည်။ အထူးသဖြင့် မြန်မာနိုင်ငံကဲ့သို့ တောတောင် ထူထပ်ပေါမျာသော တိုင်းပြည်များတွင် သစ်တောများ ထိန်းသိမ်းခြင်း ချွတ်ယွင်းပါက အောက်ပိုင်းတွင်ရှိသော မြေညီများတွင် ရေစီးကမ်းပြိုခြင်း၊ နုံ့များ ဖုံးလွှမ်းခြင်း၊ မြေဩဇာ လျော့ပေါ့ခြင်းနှင့် ရေကြီးခြင်း စသော ဘေးအန္တရာယ်များ တွေ့ရှိတတ်သည်။ ထိုအကျိုး ကျေးဇူးများအပြင် ထာဝစဉ် သစ်တောထွက်ပစ္စည်းများ ရရှိရေး၊ သစ်တောများ အစွန့်ရှည်စွာ တည်မြဲရေးနှင့် တိုးပွားရေးတို့ အတွက် စည်းကမ်းတကျ အုပ်ချုပ်လုပ်ကိုင်နိုင်ရန် ကွက်စိတ် စီမံကိန်းများ ရေးဆွဲ၍ ယင်းအတိုင်း စီမံခန့်ခွဲထိန်းသိမ်းစောင့်ရှောက်ရသည်။ သစ်တောများကို တိုင်းကြီး ငါးတိုင်းနှင့် ရှမ်းပြည်နယ်ဟု သတ်မှတ်ပြီးလျှင် ယင်းတို့ကို တဖန် သစ်တော ခရိုင် ၃၅ ခရိုင် ခွဲကာ သစ်တောမင်းကြီးချုပ်၊ သစ်တော မင်းကြီးများ၊ သစ်တောခရိုင်ဝန်များနှင့် အခြား အရာထမ်း အမှုထမ်းများက အုပ်ချုပ် သွားလေသည်။

**သစ်တောအုပ်ချုပ်မှု စီမံကိန်းနှင့် သုတေသန။** ။မြန်မာနိုင်ငံတွင် သစ်တောဌာနမှ အုပ်ချုပ်သော စတုရန်း မိုင်ပေါင်း ၁၀၅,၃၀၇ တို့အတွက် အသေးစိတ် သစ်တောအုပ်ချုပ်မှု ကွက်စိတ်ကိန်းများ ရေးဆွဲရသည်။ ထိုစီမံကိန်းများသည် ၁၀ နှစ်မှ ၁၅ နှစ်အတွက် ရေးဆွဲသော စီမံကိန်းများဖြစ်ရာ ကုန်ဆုံးသောအခါ သက်ဆိုင်သည့်နယ်အတွင်း စုဆောင်း ရရှိသော ကိန်းဂဏန်းများ၊ ဗဟုသုတများ၊ အကြံသစ် ဉာဏ်သစ်များနှင့် လက်ရှိ လိုလားသော အခြေအနေကို ထောက်၍ စီမံကိန်းအသစ်များကို ရေးဆွဲရသည်။

**သစ်တော စိုက်ပျိုးပြုစုရေး။** ။ပြည်တွင်းရှိ သစ်ပင်များ မျိုးဆက်ရေး၊ ကြီးပွားရေး၊ နမူနာ စုဆောင်းရေး၊ စမ်းသပ်ရေး စသည့် လုပ်ငန်းများ ပြုလုပ်ရသည်။ ထိုပြင် သစ်စေ့စုဆောင်းခြင်း၊ ပျိုးခင်းမှ သစ်ပင်ပေါက်များ ဖြန့်ဖြူးဝေငှခြင်း၊ အပူပိုင်းဒေသနှင့် သင့်တော်သော သစ်ပင်မျိုးစုံကို စမ်းသပ် စိုက်ပျိုးခြင်း၊ ပြည်ပ သစ်ပင်များကို စမ်းသပ်စိုက်ပျိုးခြင်း၊ ဘယဆေးပင်များ စုဆောင်းပေးခြင်းများကို ဆောင်ရွက် လုပ်ကိုင်ကြရသည်။

**သစ်တော ဘေဂဒေဗ။** ။ဤဌာနခွဲ၏ လုပ်ငန်းများမှာ သစ်တောထွက် ပစ္စည်း ကိန်းဂဏန်းများ စုဆောင်းခြင်း၊ နည်းသစ် လမ်းသစ်များ ရှာဖွေခြင်း၊ ရောင်းတန်း မဝင်သေးသော သစ်မျိုးများကို ရောင်းချနိုင်ရန် စီစဉ်ခြင်း၊ အသေးအဖွဲ့ ဖြစ်သော သစ်တောထွက် ပစ္စည်းများ ပိုမို ကောင်းမွန်စွာ ထွက်ရန် ကူးသန်း ရောင်းဝယ်ရေးနှင့် စပ်လျဉ်းသည့် ကိန်းဂဏန်းများ စုဆောင်းခြင်းနှင့် နိုင်ငံခြား ဆက်သွယ်သော လုပ်ငန်းများ ဖြစ်သည်။ ထိုပြင် သစ်သား နမူနာမျိုးစုံရရှိရေးနှင့် ယင်းတို့ မည်သို့ မည်ပုံ အသုံးဝင်ကြောင်း မှတ်ချက်များနှင့်အတူ မြန်မာသံရုံးများသို့၎င်း၊ အခြား အလိုရှိသော ပုဂ္ဂိုလ်များနှင့် သုတေသနဌာန များသို့၎င်း ဖြန့်ဖြူးရသည်။

**သစ်ထုတ်လုပ်ရေး။** ။သစ်များ ပိုမိုထုတ်ယူရန်အတွက် ကျွန်းပင် သင်းသတ်ခြင်းနှင့် သစ်မာများထုတ်လုပ်ခြင်းကို ဆောင်ရွက်ရသည်။ မြန်မာနိုင်ငံ သစ်လုပ်ငန်းအဖွဲ့၏ အကူအညီဖြင့် တနှစ် တနှစ်လျှင် ကျွန်းပင်ပေါင်း များစွာကို သင်းသတ်ခဲ့ရသည်။ ထိုပြင် ရောင်းဝယ်ရေးအတွက် ထင်း၊ မီးသွေး၊ဝါး၊ကြိမ်၊ချိပ်နှင့် ရှားများကိုလည်း ထုတ်ယူသည်။ အရေးကြီးသော သစ်တော လမ်းများကို တနှစ် ပတ်လုံး မော်တော်ယာဉ်များဖြင့် သစ်များထုတ်ယူနိုင်ရန် ကျောက်လမ်းများခင်းပေးခြင်း၊ လမ်းများမရှိသေးသည့် နေရာများတွင် အသစ်ဖောက်လုပ်ခြင်းများကိုလည်း စီစဉ်ရသည်။

လူဦးရေ အများဆုံးဖြစ်သည့် မြစ်ဝကျွန်းပေါ်၊ ဟံသာဝတီနှင့် ရန်ကုန်ခရိုင်များတွင် မြစ်ဝကျွန်းပေါ် ပင်လယ်ရေမြုပ်တောများမှထွက်သော ကနစိုထင်းကိုသာ အသုံးပြုကြသည်။ ကနစိုသည် အလွန်ခိုင်ခံ့၍ သစ်အဖြစ် များစွာ အသုံးပြုထိုက်သော သစ်ကောင်းတမျိုးဖြစ်ကြောင်း တွေ့ရသည်။ထို့ကြောင့် ထင်းအဖြစ်သုံးမည့်အစားသစ်အဖြစ်သုံးရန်နှင့် အခြား ရေမြုပ်သော အမျိုးများကိုလည်း ထင်းနှင့် မီးသွေးအဖြစ် အသုံးချရန် စီမံကိန်းများရှိသည်။ ထိုပြင်

ပြုခေါက်မှ သားရေနယ်ဆေး ခွဲထုတ်ယူနိုင်သေးသည်။ ရှမ်းပြည်နှင့်ချင်းဝိသေသတိုင်းတွင် ထင်းရှူးတောများ ရေယာ ၁,၆၀၀ စတုရန်းမိုင် ခန့်ရှိရာ ထိုအပင်များမှ ထင်းရှူးဆီ ထုတ်ယူခြင်းနှင့် တာပင်တိုင်ဆီချက်လုပ်ခြင်း လုပ်ငန်းများကိုလည်း ဆောင်ရွက်လျက်ရှိသည်။

အပူပိုင်းဒေသနှင့် ပုပ္ပားတောင်တဝိုက်တွင် သစ်တောများ ပြန်လည်ထူထောင်ရေးအတွက် သစ်တောဌာနအရာရှိအချို့ကို မြေယာကျေးလက် တိုးတက်ကြီးပွားရေး ကော်ပိုရေးရှင်းသို့ လွှဲပြောင်းပေးပြီး ဆောင်ရွက်စေလျက်ရှိသည်။ ရှမ်းပြည်နယ်တွင် မြေထိန်းသိမ်းခြင်းလုပ်ငန်းကို သစ်တောအရာရှိချုပ်လက်အောက်တွင် ထားရှိပြီးလျှင် ရေစား မြေပြိုခြင်းတို့ကို နည်းအမျိုးမျိုးဖြင့် ကာကွယ် ဆောင်ရွက်လျက်ရှိလေသည်။

**သစ်တိုပင်။** ။ကြီးမားခန့်ညားစွာ၍ မြင့်မားပြီးလျှင် အရိပ်အာဝါသ ကောင်းမွန်သော သစ်တိုပင်ကြီးများသည် စိုစွတ်ထိုင်းမှိုင်းသော အရပ်ဒေသများတွင် မြေပြင် အမြင့် ပေ ၃,၀၀၀ ထိ ပေါက်ရောက်နိုင်သည်ကို တွေ့ရသည်။ အိန္ဒိယနိုင်ငံ၊ မလ္လာယု ကျွန်းဆွယ်တို့တွင် ပေါက်ရောက်သည့်ပြင် မြန်မာနိုင်ငံအောက်ပိုင်း အမြဲစိမ်း သစ်တောကြီးများတွင် သစ်တိုပင်ကြီးများကို တွေ့ရလေသည်။ ရန်ကုန်မြို့တွင် အတွေ့ အမြင်ရများသော သစ်ပင်များအနက် သစ်တိုပင်များလည်း ပါဝင်လေသည်။

သစ်တိုပင်သည် ၁၂ ရာသီ စိမ်းလမ်းသော အပင်ကြီးမျိုးဖြစ်၍ မီလီယေစီအီး မျိုးရင်းဝင် ဖြစ်သည်။ ရုက္ခဗေဒအမည်အားဖြင့် ဆန်ဒေါရီကမ် အင်ဒီကမ်ဟု ခေါ်သည်။ ထိုအပင်ကြီးများသည် ပေ ၇၀ မှ ပေ ၉၀ အထိ မြင့်မားကြပြီးလျှင် လုံးပတ်ခုနစ်ပေမှ ရှစ်ပေအထိ ရှိနိုင်သည်။ အရွက်များသည် ရွက်မြွှာကြီး သုံးခုပါသော ရွက်ပေါင်းဖြစ်သည်။ အနားညီအရွက်များဖြစ်၍ ဘေးရွက်နှစ်ရွက်သည် ညှာတံ တိုပြီးလျှင် ထိပ်ရွက်မြွှာသည် ညှာတံရှည်သည်။ အရွက်များသည် ထိပ်ချွန်သော ဘဲဥဝိုင်း ပုံသဏ္ဌာန် ဖြစ်လေသည်။

အကိုင်းအခက် ခွကြားနေရာများမှ ပန်းခိုင်များ ထွက်၍ပွင့်သည်။ ပန်းပွင့်များသည် သေးငယ်ကြ၍ ဖြူသယောင်ယောင် ဝါသယောင်ယောင် ဖြစ်သည်။ နွေရာသီ ကုန်လုနီးချိန်တွင် အသီးများမှည့်ဝင်းကြရာ အလုံးအနေအထားနှင့် အရောင်အသွေးသည် အဝေးမှကြည့်လျှင် လိမ်မော်သီးနှင့် ရိုးမှားဖွယ်ရာ တူလေသည်။ အသီး၏ အတွင်းသား နေပုံသည် မင်းကွတ်သီးနှင့် ဆင်ဆင်တူသည်။ ထို့ကြောင့် သစ်တိုသီးကို အချို့က တောမင်းကွတ်ဟုခေါ်ကြသည်။ အစေ့ခန်းသုံးခန်းမှ ငါးခန်းအထိ ပါရှိတတ်ရာ တခန်းဌ်တစေ့စီပါသော အစေ့များကို ဖုံးလျက်ရှိသော အသားနှစ်သည် ဖြူဖွေးပြီးလျှင် ချိုချဉ်ချဉ် အရသာ ရှိသည်။ ထိုအသားနှစ်ကို အိန္ဒိယနိုင်ငံတွင် ကျော်ကျော (ဂျယ်လီ) ပြုလုပ်ကြသော်လည်း အနံ့မကောင်းလှချေ။ အသီးမှည့်၏ အတွင်းသားကို အစိမ်းစားကြသည်သာ များလေသည်။ မလ္လာယုကျွန်းဆွယ်တွင် ထိုအနှစ်ကို ဆန်နှင့်ရော၍ ကစော်ဖောက်ပြီးလျှင် သေရည်တမျိုး ပြုလုပ်ကြလေသည်။

မြန်မာနိုင်ငံတွင်မူ ဝါဝင်း၍ အတန်ငယ်ပျော့သောအသီးခွံကို အသုံးများကြသည်။ စင်စစ် ထိုအသီးခွံသည် ချဉ်ဖန်ဖန်အရသာရှိပြီးလျှင် အနံ့သည်လည်း တမျိုးဖြစ်သည်။ သို့သော် ထိုအသီးမှည့်ခွံသည် ဝက်သားနှင့် ဆီပြန်ချက်လျှင်ငင်း၊ ငပိချက်ချက်လျှင်ငင်း အလွန်နှုတ်မြိန်သော ဟင်းမယ်များဖြစ်လာနိုင်ပေသည်။ အချို့အရပ်ဒေသ၌ သစ်တိုသီးကို အလုံးလိုက် ချဉ်ဖတ်ထည့်၍လည်းစားကြသည်။

သစ်တိုသီးအခွံနှင့် အပင်၏အခေါက်သည် အဖန်ဓာတ်ပါ၍ ချုပ်သဖြင့် ဝမ်းသက်ရောဂါနှင့် ဝမ်းကိုက်ရောဂါများအတွက် အသုံးကျသည်။ အမြစ်သည်လည်း ဝမ်းသက်ခြင်းအတွက် ဆေးဖက်ဝင်သည်ဟု ဆိုကြလေသည်။

သစ်တိုသားသည် ခွဲဖြတ်ပြီးစတွင် ပန်းရောင်ဖြစ်သော်လည်း အသားခြောက်သွားသည့်အခါ အရောင်ပြောင်းကာ နီညို ဖြစ်သွားသည်။ ရာသီ ဥတု အချိန် အခါကို လိုက်၍ အသားပွထခြင်း၊ ကျစ်သိပ်ခြင်း ဖြစ်တတ်ပြီးလျှင် သစ်ဖောက် ပိုးကောင်များ ခိုအောင်းနိုင်သဖြင့် သစ်ကတိုးထက်ညံ့သည်ဟု ဆိုရစေကာမူ အိမ်ထောင်ပရိဘောဂများ ပြုလုပ်ရာတွင် သစ်ကတိုးအစား အသုံးပြုနိုင်သည်။ ထို့ပြင် လှည်းများ၊ လှေများ၊ ရေစည်များကိုလည်းသစ်တိုသားဖြင့် ပြုလုပ်ကြသည်။ အထူးသဖြင့် သစ်တိုသားကို ခုံဖိနပ်ပြုလုပ်ရန် အသုံးချကြသည်။

တနင်္သာရီ တောင်ပိုင်းတွင် တကတ်သစ်တိုဟုခေါ်သော သစ်တိုပင်တမျိုး ပေါက်ရောက် သည်ကို တွေ့ရလေသည်။ သစ်တိုပင်များကို အစေ့ပျိုး၍ စိုက်နိုင်လေသည်။

**သစ်တောက်ငှက်။** ။မြန်မာနိုင်ငံတွင်သစ်တောက်ငှက် အမျိုးမျိုးရှိသည်။ သစ်တောက်ငှက်သည် ပီစီဖောမီးမျိုးစဉ်တွင် ပီစီဒီးမျိုးရင်း၌ ပါဝင်သည်။ လူသိများသောသစ်တောက်ငှက်မျိုးကို ပါဏဗေဒ အလိုအားဖြင့် ပိုင်းကပ်ဗီရီဒေးနပ် ဟု ခေါ်သည်။ ထိုငှက်မျိုးသည် အလျား ၁၃ လက်မ ရှိသည်။ အပေါ်ပိုင်းသည် စိမ်းနေ၍ အမြီးပိုင်းမှာ အဝါရောင် တောက်နေသည်။ အဖို၏ ဦးခေါင်းနှင့် အမောက်သည် ကြက်သွေးရောင်ဖြစ်၍ အမ၏ဦးခေါင်းနှင့် အမောက်မှာ မည်းနက်နေသည်။ မျက်ခုံးမွေးအဖြူပေါ်တွင် အနက်ကြောင်းရှိ၍ အောက်ပိုင်းတွင် အကြေးများသဖွယ် အမည်းမှတ်များ ရှိလေသည်။ သစ်တောက်ငှက်ကိုခေါက်ရှာ



နှုတ်သီးများချွန်၍ မာလှသည့် သစ်တောက်ငှက်

ငှက်၊ သို့မဟုတ် တောက်ရှာငှက်ဟုလည်း ခေါ်သေးသည်။

သစ်တောက်ငှက်တို့၏ ထူးခြားသော သွားလာလှုပ်ရှားမှု၊ အပြုအမူများကြောင့် အခြားငှက်များနှင့် မတူပဲ အလွယ်တကူ ခွဲခြားသိနိုင်လေသည်။ သစ်တောက်ငှက်မျိုးသည် တောင်ပံကို အနည်းငယ်မျှ ဆူညံစွာ ရိုက်ခတ်၍ ပျံသန်းပြီးနောက် တောင်ပံကို စုလျက် လေဟုန်စီးကာ ဆင်းသက်တတ်သည်။ ဤသို့ဖြင့် အောက်သို့ထိုးဆင်း၍ တဖန်ပြန်တက်နိုင်ရကား လှိုင်းအိသဖွယ် ဖြည်းဖြည်းနှင့်လေးလေးနိမ့်ချည်မြင့်ချည် ပျံသန်းတတ်ကြသည်။ သစ်ပင် တပင်မှ တပင်သို့ ဆူညံစွာ အော်ဟစ်၍ တကောင်နောက်တကောင် လိုက်တတ်သည်။

ခြေတဖက်စီတွင် ခိုင်မာသန်စွမ်းသော ခြေသည်းလေးခု ရှိရာဝယ် ကျေးနှုတ်ညှပ်သဖွယ် နှစ်ခုသည် နောက်သို့ငှင်း၊ အခြားနှစ်ခုသည် ရှေ့သို့ငှင်း ကုပ်နေသည်။ အမြီးလည်း အတော် တောင့်တင်းခိုင်မာ၏။ ဤကဲ့သို့သော အမြီးနှင့် ချွန်ထက်သော ခြေသည်းများကြောင့် သစ်တောက်ငှက်သည် သစ်ပင်တပင်၏ ပင်စည်တွင်ဖြစ်စေ၊ သစ်ကိုင်းကြီးတွင်ဖြစ်စေ စွဲမြဲစွာ မတ်မတ်ရပ်တည်နေနိုင်ပြီးလျှင် သစ်ပင်၏ အခေါက်တွင် တွယ်ကုပ်လျက် ခုန်ကာခုန်ကာဖြင့် တက်ချည် ဆင်းချည် ပြုလုပ်နေတတ်သည်။ ပင်စည်မှအဆင်းတွင် ငှက်ပြာခေါက်များကဲ့သို့ ဦးခေါင်းစောက်ထိုး ထား၍ ပြန်ဆင်းလာသည် မဟုတ်ပဲ အတက်ကဲ့သို့ပင် ဦးခေါင်းအပေါ်ထားပြီးနောက် နောက်ပြန် ခုန်ကာခုန်ကာ ဆင်းတတ်သည်။ ဤသို့ ပြုလုပ်နိုင်ခြင်းမှာ တောင့်တင်းသော အမြီးဖျားကို သစ်ပင်အခေါက်တွင် ထောက်သဖွယ် ထောက်ထားနိုင်သောကြောင့် ဖြစ်ရကား ကိုယ်အလေးချိန်ကို ကောင်းစွာ ထိန်းထားနိုင်လေသည်။ ဤအနေအထားမျိုးဖြင့် တက်ချည် ဆင်းချည် ပြုလုပ်ရင်း ချွန်ထက်မာကျောသော နှုတ်သီးဖြင့် တူသဖွယ် ပင်စည်ကို တတောက်တောက် ထိုးဖောက်လေသည်။ ပင်စည်အတွင်းရှိ သစ်ပိုးများကို ထိပ်တွင် ဆူးရှိသော စေးကပ်နေသည့် လျှာရှည်ကြီးဖြင့် လိုက်လံ ရှာဖွေ စားသောက်လေသည်။ သစ်တောက်ငှက်သည် အရွယ်ကိုလိုက်၍ ခေါက်သံ ပေးတတ်သည်။

သစ်တောက်ငှက်သည် သစ်ပင်၏ ပင်စည်တွင်ငှင်း၊ အကိုင်းတွင်ငှင်းအပေါက်ဖောက်၍အသိုက်လုပ်သည်။အပေါက်ကို အလျားလိုက် ခပ်နက်နက် ဖောက်ထွင်းသွား၏။ ဤသို့အပေါက်ဖောက်ရင်း တခါတရံ သဘာဝအလျောက် ဖြစ်နေသော သစ်ခေါင်းပေါက်များနှင့် တွေ့ရသဖြင့် အသိုက်အဖြစ် အသုံးပြုလေသည်။ ဥများမှာ ရှည်မျောမျော ဖြစ်၍ အပြောက်အစက်မရှိပဲ အဖြူရောင် တောက်ပလျက်ရှိသည်။ ဥများကို ဖေဖွာရီလမှ ဧပြီလအတွင်း အုလေ့ရှိသည်။

သစ်တောက်ငှက်သည် ချူချူ ချူချူဟု ကျယ်လောင်စွာ အော်တတ်သော်လည်း အစာ စားနေစဉ်တွင် ညှင်းပျောင်းသာယာစွာ အော်သည်။ မြေကြီးပေါ်၌သာ ကျက်စားသည်ကို တွေ့ရှိရသည်။ များသောအားဖြင့် ရေညှိတက်နေသော သစ်ပင်နှင့် ကျောက်တုံးကြီးများတွင် အစာ ရှာဖွေသည်။ ပရွက်ဆိတ်များကို နှစ်သက်သည်။

မြန်မာနိုင်ငံတွင် သစ်တောက်ငှက် အမျိုးပေါင်း များစွာ ရှိသည့်အနက် အများဆုံး တွေ့ရသော အခြား သစ်တောက်ငှက်မျိုးများမှာ သစ်တောက်ကျား၊ သစ်တောက်နီ၊ သစ်တောက်နက်နှင့် သစ်တောက်ကုပ်ဝါများ ဖြစ်သည်။ သစ်တောက်ကျားသည် အလျား ခြောက်လက်မမှ ခုနစ်လက်မခန့်ရှိ၍ တောင်ခြေနှင့်ကွင်းပြင်များတွင် တွေ့ရသည်။ သစ်တောက်နီသည် အလျား ၁၀ လက်မ ရှိသည်။ ကျွန်းတောနှင့် ကွင်းပြင်များ၌ တွေ့ရသည်။ သစ်တောက်နက်သည် အလျား ခြောက်လက်မရှိသည်။ ငှက်မသည် ငှက်ဖိုနှင့် တူသော်လည်း ဦးခေါင်းနှင့် နဖူးသည် မည်းနက်နေသည်။ တောင်ခြေနှင့် ကွင်းပြင်များ၌ ကျက်စားသည်။ သစ်တောက်ကုပ်ဝါသည် အလျား ၁၃ လက်မရှိသည်။ ငှက်ဖို၏ မေးစေ့နှင့် လည်ပင်းသည် လိမ်မော်ရောင်သန်းနေ၍ ငှက်မတွင် သပြေညိုရောင် ဖြစ်သည်။ တချပ်ချပ်နှင့် ပြတ်တောင်းပြတ်တောင်း အော်ပြီးနောက် အသံကို မြှင့်၍ ခပ်မြန်မြန် အော်သည်။ တောင်ပေါ်နှင့် တောင်အောက်ရှိ တောများတွင် ကျက်စားသည်။

သစ်တောက်ငှက်သည် သစ်ပင်ဖျက်ပိုးများကို သုတ်သင်

ရှင်းလင်းပေးသဖြင့် လူတို့အတွက် အထူးအကူအညီရပေသည်။ ကျွန်းပင်များ အတွင်းသို့ ထိုးဖောက်ဝင်ရောက်၍ ဖျက်ဆီး စားသောက်နေတတ်သော ပိုးတမျိုး ရှိရာ ထိုပိုးများကြောင့် မြန်မာနိုင်ငံရှိ ကျွန်းသစ်များ၏ တန်ဖိုးကို များစွာ ယုတ်လျော့စေလေသည်။ သစ်တောက်ငှက်သည် ထိုပိုးများကို အထူးနှစ်သက်ရကား ယင်းတို့ကို လိုက်လံရှာဖွေ စားသောက်ကြသည်။ အကယ်၍ သစ်တောက်ငှက်များသာ မရှိပါက မြန်မာနိုင်ငံ ကျွန်းတောများမှာ ထိုမျှမက ပျက်စီးကြမည် ဖြစ်သည်။

သစ်တောက်ငှက်များသည် မလေးရှားနိုင်ငံမှ ယိုးဒယားနှင့် မြန်မာနိုင်ငံအထိ ပျံ့နှံ့သည်။ မြန်မာနိုင်ငံတွင် သစ်တောက်ငှက်များကို ရခိုင်တိုင်း၊ မြန်မာနိုင်ငံအလယ်ပိုင်းနှင့် ကယားပြည်နယ်တောင်ပိုင်း၊ တနင်္သာရီတိုင်းများတွင် အများအပြား တွေ့ရသည်။ ထိုပြင် ကမ္ဘာအနှံ့အပြားတွင်လည်း တွေ့ရသည်။

**သစ်ပိုး။** ။သစ်ပိုးဟု ခေါ်သော ပိုးတမျိုးကို ဥယျာဉ်ခြံများထဲတွင် တွေ့မြင်ရတတ်သည်။ ထိုသစ်ပိုးမျိုးသည် ပိုးမွှားငယ်များ၊ ပိုးနသံကောင်များနှင့် ခပ်ဆင်ဆင် တူသော်လည်း အမှန်စင်စစ် ကရပ်စတေးဆီး မျိုးပေါင်းတွင် အပါအဝင်ဖြစ်သည်။

မျိုးစဉ်မှာ အိုင်ဆိုပိုဒါဖြစ်သည်။ အလျား လက်မဝက်ခန့်ရှိ၍ မွဲခြောက်ခြောက် အခွံမာ ဖုံးအုပ်လျက် ရှိသည်။ သစ်ပိုးများကို ကျောက်ခဲ ကျောက်တုံးများ၊ သို့မဟုတ် သစ်ရွက်ဆွေးများအောက်တွင်ရင်း၊ သစ်ပုပ် သစ်ဆွေးတို့ အထဲတွင်ရင်း တွေ့နိုင်သည်။ အခြား အိုင်ဆိုပိုဒါမျိုး ဖြစ်သော အကောင်တို့နှင့် မတူသော အချက်မှာ ထိုသစ်ပိုးမျိုးသည် ကုန်းပေါ်၌ နေနိုင်၍ လေကို ရှူနိုင်ခြင်း ဖြစ်သည်။ ထိုသစ်ပိုးမျိုးတွင် ခြေအစုံ ခုနစ်စုံပါရှိ၍ အားလုံးမှာ တညီတညွတ်တည်း ဖြစ်ကြသည်။ ခြေထောက်များကို အမှတ်မဲ့ကြည့်လျှင် ကိုယ်နံဘေးမှ ထွက်နေသည်ဟု ထင်ရသော်လည်း အမှန်စင်စစ် ရင်ပတ်ဆီမှ ဖြာထွက်နေကြခြင်းသာ ဖြစ်သည်။ ခြေထောက်များအပြင် ခေါင်း၌ အမွေးအမှင်များလည်း ရှိပြီးလျှင် အမြင်သန်သော မျက်စိတစုံလည်း ရှိသည်။ ဝမ်းပိုက်အောက်တွင် အပြားချပ်ကလေးများကဲ့သို့ ဖြစ်နေသော အင်္ဂါတို့ရှိသည်။ ထိုအင်္ဂါတို့ဖြင့် အသက်ရှင်နေနိုင်ရန် လေကိုရှူကြသည်။

သစ်ပိုး အမတို့သည် ဥများကို အခြား နေရာများတွင် မည်သည့်အခါမျှ အုမချပဲ ရင်ပတ်အောက်၌ ရှိသော အိတ်ထောင့်ငယ်ထဲသို့သာ အုထည့်ကြသည်။ ဥမှ ပေါက်လာသည့် သစ်ပိုးအကောင်ငယ်ကလေးများသည် အကောင်ကြီးများနှင့် နောက်ဆုံး ခြေအစုံ တစုံ မပါသည့် အချက်မှလွဲ၍ သဏ္ဌာန်ချင်း တထေရာတည်းပင် တူကြသည်။ ထိုအကောင်ကလေးတို့တွင် ပဌမဆုံး အကြိမ် အရေလဲပြီးမှ ခြေထောက် ခုနစ်စုံ ပြည့်လာသည်။ သစ်ပိုးအကောင်ငယ်ကလေးများ ကြီးထွားလာပုံမှာ အလွန် လျင်မြန်လှ၏။ ထိုကြောင့် ဥယျာဉ်အတွင်းရှိ သစ်ပင်တို့မှ အဆီအနှစ်များကို လျင်မြန်စွာ စားသုံးပစ်တတ်ကြသဖြင့် ထိုသစ်ပိုးတို့အား အထူး ဂရုစိုက်၍ သုတ်သင်ပစ်ရန် လိုအပ်ပေသည်။ သစ်ပိုးသည် နေရောင်မကြိုက်သဖြင့် ညဥ့်အချိန်များ၌သာ ထွက်လေ့ရှိသည်။



သစ်များကို အူတိုင်ကြောင်းအထိ ဖောက်စားတတ်သည့် သစ်ဖောက်ပိုးများ

ရိုးရိုးသစ်ပိုးအပြင် အခြား သစ်ပိုးတမျိုးလည်း ရှိသေး၏။ ထိုအမျိုးသည် ပိုးနသံကောင်ကဲ့သို့ သူတို့အား ထိလိုက်လျှင် ခွေလိပ် သွားတတ်ကြသည်။ သို့သော် သူတို့ကား ပိုးနသံကောင်များ မဟုတ်ကြချေ။

# လူ့အကျိုးပြု ရွှေပင်ငွေပင်များ

**ကျွန်းကိုင်းမှီ၊ ကိုင်းကျွန်းမှီရသော သစ်ပင်နှင့်မြေကြီး၊ သစ်ပင်နှင့်လူသတ္တဝါတို့၏ ခြားနားချက်၊ သစ်ပင်တပင်၏ အင်္ဂါအစိတ်အပိုင်းတို့က ဆောင်ရွက်ရသော တာဝန်ဝတ်တရားများ၊ သစ်ပင်တပင်၏ အသက်မည်မျှရှိသည်ကို သိနိုင်သည့်နည်း၊ သစ်ပင်များ၏ ရန်သူများ၊ သစ်ပင်ဖိုးသက်ရှည်ကြီးများနှင့် အဓိကရသစ်ပင်ကြီးများ စသည်တို့အကြောင်း စိတ်ဝင်စားဖွယ် ဖော်ပြထားသည်။**

**သစ်ပင်။** ။"သစ်ပင်"ဟူသော ဝေါဟာရတွင် အကျုံးဝင်သည်ဟု အသိအမှတ်ပြုကြသောအပင်များမှာ ယေဘုယျအားဖြင့် ပင်စည်တခုတည်းသာ ရှိပြီးလျှင် အနည်းဆုံး အမြင့် ၁၀ ပေခန့်ရှိရပေသည်။ ထိုပြင် သစ်ပင်၏ ပင်စည်မှ သစ်သားရနိုင်လေသည်။ ချုံပင်သည် ပင်စည်တခုထက် ပိုရှိပြီးလျှင် ပင်စည်မှ သစ်သားလည်း မရနိုင်ပေ။ သစ်ပင်၏ ပင်စည်တို့သည် မြေမှထွက်၍ အပေါ်သို့ ထောင်ကာ မိုးသို့မျှော်၍ ပေါက်ကြသည်။ သစ်ပင်တပင်၏ ပင်စည်ပိုင်းသည် အထက်သို့တိုး၍တိုး၍ တက်ကာ အထက်ပိုင်းရှိ ရွက်အုပ်သည် လေနှင့် နေရောင်ကို ရနိုင်သလောက်ယူသည်။ အမြစ်ပိုင်းမှာမူ မြေကြီးထဲသို့ နက်သည်ထက် နက်အောင် ဝင်ရောက်ကာ အဖက်ဖက်သို့ အမြစ်များဖြာထွက်လေသည်။

**သစ်ပင်အမျိုးမျိုး။** ။အပင်လောကတွင် သစ်ပင်သည် အကြီးဆုံးသော အပင်မျိုးလည်း ဖြစ်သည်။ အသက်ရှည်ဆုံး အပင်မျိုးလည်း ဖြစ်သည်။ ကမ္ဘာ့မြေပြင်ပေါ်၌ ပေါက်ရောက်သော သစ်ပင်တို့ကား အမျိုးအမည်များပြားလှစွာ ရှိပေသည်။ နေရာဒေသ၊ ရာသီဥတု၊ ရေမြေသဘာဝကိုလိုက်၍ အပူပိုင်းဒေသပေါက် သစ်ပင်မျိုး၊ သမပိုင်းဒေသပေါက် သစ်ပင်မျိုး၊ စိုစွတ်ထိုင်းမှိုင်းသောဒေသပေါက် သစ်ပင်မျိုး စသည်ဖြင့် အမျိုးမျိုးရှိလေသည်။ သို့ရာတွင် သစ်ပင်အမျိုးပေါင်း ထောင်သောင်းချီ၍ ရှိသည့်အနက် အဓိကအားဖြင့် ခွဲခြားလိုက်လျှင် အပ်ရွက်ပင်မျိုးနှင့် ရွက်ပြန့်ပင်မျိုးဟူ၍ နှစ်မျိုးရှိလေသည်။

အပ်ရွက်ပင်မျိုးတို့ကား ထင်းရှူးမျိုးများဖြစ်ပေသည်။ သေးကျစ်ရှည်ချွန်၍ အပ်ချောင်းနှင့်တူသော ထင်းရှူးရွက်တို့သည် အလွန်အေးမြသော ဆောင်းရာသီ၏ဒဏ်ကို ခံနိုင်ရည်ရှိပြီးလျှင် အရွက်ကြွေခြင်း မရှိချေ။ ထို့ကြောင့် ထင်းရှူးတောများကို အမြဲစိမ်းတော၊ သို့မဟုတ် ရွက်မပြတ်တောဟု ခေါ်ဆိုကြသည်။ အရွက်တို့သည် အကိုင်းများရှိ အဖုများမှရင်း၊ အခက်များမှရင်း တရွက်စီထွက်သည်။ အပ်ရွက်ရှိသော သစ်ပင်များမှ ကတော့ပုံအသီးမျိုးသီးသည်။

သစ်ပင်မှသီးသော အသီးများကို သစ်သီးဟု ခေါ်ကြ၍ သစ်သီးမှ အစေ့ကို သစ်စေ့ဟု ခေါ်ကြလေသည်။ သစ်စေ့များကို နှစ်မျိုးခွဲခြားနိုင်ရာ အသီးအတွင်း၌ အစေ့အိမ်ဖွဲ့၍ တည်တတ်သော အစေ့မျိုးကို မျိုးစေ့ဝှက်ဟူ၍ရင်း၊ အသီးအတွင်း၌မနေပဲ အသီးမျက်နှာပြင်သို့ ဟင်းလင်းပေါ်ထွက်နေသော အစေ့မျိုးကို မျိုးစေ့ဖော်ဟူ၍ရင်း ခေါ်ဆိုခွဲခြားကြသည်။ ထင်းရှူးစေ့များသည် ဒုတိယအမျိုးအစား၌ ပါဝင်၍ မှည့်သောအခါ အစေ့များသည် အပသို့ စဉ်ထွက်လေသည်။ ယင်းသို့ဖြင့် လေထဲတွင်လွင့်ပါ၍ မြေသို့ကျရောက်သော အစေ့များသည် အပင်ပေါက်နိုင်သော်လည်း မြေသို့မကျသည့် အစေ့များသည် အစေ့အိမ်မပါသဖြင့် ပျက်စီးကုန်လေသည်။

အပ်ရွက်ပင်မျိုးသည် အအေးဒဏ်ကို ခံနိုင်ရည် ရှိသဖြင့် ကမ္ဘာ့အအေးပိုင်း ဒေသများ၌ရင်း၊ တောင်ပေါ်သစ်တောများအဖြစ်ရင်း ပေါက်ရောက်ကြသည်။ အပ်ရွက်ပင်မျိုး၏ အသား၊သို့မဟုတ် ထင်းရှူးသားတို့သည် အခြားသစ်သားများနှင့် နှိုင်းစာလျှင် အသားပွ၍ ခွဲစိတ်လွှတိုက်ရန် လွယ်ကူသည်။ သို့သော် အဖိုးတန် သစ်သားကိုမူ ထင်းရှူးပင်မှ မရရှိနိုင်ပေ။

ရွက်ပြန့်ပင်မျိုးတို့သည် ဆောင်းကူးရာသီတွင်အရွက်ကြွေသည်။ မြန်မာနိုင်ငံကဲ့သို့ အပူပိုင်းဒေသများတွင် သစ်ပင်တို့သည် နွေရာသီ၌ အရွက်ကြွေကြသည်။ (မြန်မာနိုင်ငံ သစ်ပင်များ—လည်းရှု။) ယင်းသို့ အရွက်ကြွေသော အပင်များပေါက်ရောက်ရာ ရွက်ပြန့်တောများကိုရွက်ပြတ်တောဟုခေါ်ကြလေသည်။ ရွက်ပြန့်ပင်တို့၏ အစေ့သည် အသီးအတွင်း၌ အစေ့အိမ်ဖြင့် လုံခြုံစွာ ဖွဲ့လျက်တည်ရှိသဖြင့်ထိုအစေ့မျိုးကို မျိုးစေ့ဝှက်ဟုခေါ်လေသည်။

ရွက်ပြန့်မျိုးတွင်ပါဝင်သည့် ကျွန်း၊ ပျဉ်းကတိုး၊ ယင်းမာစသော အပင်မျိုးတို့၏ သစ်သားသည်မာကျော၍ လှပသောအကွက်များ ရှိသဖြင့် အိမ်တွင်းသုံးပစ္စည်းများ ပြုလုပ်ရန်ကောင်းသည့် အဖိုးတန် သစ်သားများ ဖြစ်ကြပေသည်။ လက်ပံ၊ မိုးမခနှင့် ပေါ့ပလာပင်တို့သည် ထင်းရှူးထက်ပင် အသားပွသေးသော်လည်း အရွက် ပြန့်ပြီးလျှင် မျိုးစေ့ဝှက်သဖြင့် ရွက်ပြန့်ပင်မျိုးတွင် ထည့်သွင်းရလေသည်။ ထင်းရှူးမျိုးတွင် ပါဝင်သော ရွက်ကြွေပင်မျိုးရှိသည့်နည်းတူ ရွက်ပြန့်မျိုး ဖြစ်သော်လည်း အရွက်မကြွေသော အပင်မျိုးလည်းရှိလေသည်။

အပူပိုင်းဇုန်ဒေသများ၌ ပေါက်ရောက်သည့် အချို့သော လမုမျိုးစိတ်နှင့် ညောင်မျိုးစိတ်ဝင် အပင်များသည်လည်း တမူထူးခြားပေသည်။ ထိုအပင်မျိုးတို့၏ အကိုင်းအခက်များမှ မြေသို့သက်သော အမြစ်များထွက်သည်။ ထိုမြေ

ထောက်မြစ်များသည် တဖြည်းဖြည်းနှင့် ပင်တံပင်လုံးများ အဖြစ်သို့ ရောက်ရှိကြပြီးလျှင် ပင်မကြီး၏ အခြံအရံ အပင်ပွားများ ဖြစ်လာကြသည်။ အိန္ဒိယနိုင်ငံ ကာလကတ္တား မြို့၏ ရုက္ခဗေဒဥယျာဉ်ရှိ ညောင်တထောင် အပင်ကြီးသည် ထိုနည်းအားဖြင့် ညောင်တပင်မှ ညောင်တအုပ် ဖြစ်လာခြင်းပေတည်း။

အခြား ထူးထူးဆန်းဆန်း သစ်ပင်များလည်း ရှိသေးသည်။ ဩစတြေးလီးယားတိုက်တွင် ပေါက်ရောက်သော သစ်ပင်တမျိုးသည်ပုလင်းပုံသဏ္ဌာန်ရှိသည်။ (ဗောတဲပင်— လည်းရှု။) အမေရိကန်ပြည်ထောင်စု ဖလော်ရီဒါပြည်နယ်မှ သစ်ပင်တမျိုးသည် ပူဖောင်းရှည်ရှည်များနှင့် တူသော အသီးများ သီးသည်။ အသီးများ သီးနေပုံမှာ သစ်ပင်၌ ပူဖောင်းရှည်များ ချိတ်ဆွဲ၍ အလှပြင်ထားသည်နှင့် တူသည်။ အသီးများကိုမူ မစားရချေ။

**ပျံ့နှံ့ပေါက်ရောက်ပုံ။** ။သစ်ပင်တိုင်းသည်နေရာဒေသမရွေး ပေါက်ရောက်ကြသည် မဟုတ်ပေ။ အပူပိုင်းဒေသ၌ ပေါက်ရောက်သောအပင်မျိုး၊ သမပိုင်းဒေသ၌ ပေါက်ရောက်သောအပင်မျိုး စသည်ဖြင့် ရေမြေဒေသ ရာသီဥတုကိုလိုက်၍ သစ်ပင်များ ပေါက်ရောက်ကြလေသည်။

ကမ္ဘာ့အရပ်ရပ်ရှိ သဲကန္တာရများစွာတို့၌၎င်း၊ မြင့်မားသော တောင်ထိပ်များ၌၎င်း၊ အစဉ်အမြဲ ရေခဲနေသော ဝင်ရိုးစွန်း ဒေသများ၌၎င်း သစ်ပင်များ မပေါက်ရောက်နိုင်ချေ။သစ်ပင်များ ပေါက်ရောက်နိုင်သော ဒေသများအနက် မြောက်လတ္တီတွဒ်မျဉ်း ၇၀ ဒီဂရီပတ်ဝန်းကျင် တဝိုက်တွင် ရှိကြသော အာတိတ်ဒေသများတွင် ကွန်နီဖာ ထင်းရှူးမျိုးတို့ ပေါက်ရောက်ကြသည်။ အမြင့်ပိုင်း သစ်တောရပ်ဝန်းတွင်၎င်း၊ ကမ္ဘာ့မြောက်ဖက်ပိုင်း တောင်ကုန်းဒေသပေါက် သစ်တောများတွင်၎င်း၊ သမပိုင်း မြေနိမ့်ဒေသပေါက် သစ်တောများတွင်၎င်း စပရူး၊ ပိုင်း၊ ဒေါက်ဂလပ်ဖား စသော ထင်းရှူးတောအမျိုးမျိုး ပါဝင်လေသည်။

ဝက်သစ်ချ၊ မေပယ်၊ အက်ရှ၊ မိုးမခ စသည့် ရွက်ပြန့်ပင်များပါဝင်သော ရွက်ပြတ်တောတို့သည် မြောက်ဖက်သမပိုင်းဒေသ၌ ပေါက်ရောက်ကြသည်။ မြောက်ဝင်ရိုးစွန်းနှင့် အနီးကပ်ဆုံးဒေသများ၌ ပေါက်ရောက်သည့် အပင်များတွင်လည်း မိုးမခနှင့် ချယ်ရီဖို မျိုးစိတ်တို့ကို တွေ့ရလေသည်။

အပူပိုင်းဇုန်ဒေသများတွင် များသောအားဖြင့် နွေရာသီ၌ အရွက်ကြွေသော ရွက်ပြန့်ပင်များ ပေါက်ရောက်သည်။ အပူပိုင်းဒေသပေါက် သစ်ပင်များအနက် ပိန္နဲ၊ အင်၊ ကညင် စသည့် ရွက်ပြန့်ပင်မျိုးတို့၏ အရွက်သည် ပိုမို ပြန့်ကားသည်။ အရွက်သေးပါကလည်း အရွက်များ ထွက်ရာဖြစ်သော ရွက်အုပ်သည် ပို၍ ထူထပ် သိပ်သည်းလေသည်။ တောင်ကမ္ဘာလုံးခြမ်း၏ အပူပိုင်းဇုန်ဒေသတွင် အာရကေးရီးယား အုပ်စုဝင် အမြဲစိမ်း၊ သို့မဟုတ် ရွက်မပြတ်တောအချို့ ပေါက်ရောက်သည်ကို တွေ့ရလေသည်။ တောင်အမေရိကတိုက်၏ အလွန်အေးမြသော တောင်ဖက်စွန်းကမ်းရိုးတန်း တလျှောက်တွင် ပင်စည် ကြွံခိုင် တိုတုတ်သော အန္တာတိတ် ဗိချ်မျိုး သစ်ပင်ကြီးများ အဓိကအားဖြင့် ပေါက်ရောက်လေသည်။

ကွန်နီဖား ထင်းရှူးမျိုးနှင့် အခြား မျိုးစေ့ဖော်အစေ့မျိုးရှိသော အပင်မျိုးတို့သည် အစေ့ပေါက် အပင်လောကတွင် အပင်သက် ရှေးအကျဆုံး ဖြစ်သည်။ တောင်ကမ္ဘာလုံး ခြမ်းတွင် အာရကေးရီယားမျိုးဝင် အပင်တို့သည် တခေတ်က နေရာဒေသအနှံ့အပြား၌ ပေါက်ရောက်ခဲ့သော မျိုးစုတစုဖြစ်ကြောင်း သိရှိရပေသည်။ သစ်ပင်များ အနက် ရှေးအကျဆုံးသော အပင်မျိုးသည် တရုပ်နိုင်ငံနှင့် ဂျပန်နိုင်ငံတို့တွင် ဂျင်ရိုဟုခေါ်၍ အနောက်နိုင်ငံများတွင် "ပျိုကေသာ" (မေဒင်ဟဲယား) ဟု ခေါ်သော သစ်ပင်မျိုးဖြစ်သည်။ ထိုအပင်မျိုး၏ မျိုးသက်သည် နှစ်ပေါင်းသန်းပေါင်း ရာနှင့်ချီ၍ရှိခဲ့လေပြီ။ သို့တိုင်အောင် ရှေးကျောက်ဖြစ် ရုပ်ကြွင်းများ၌ တွေ့ရသည့်အတိုင်း အရွက် အခက်အနေအထား စသည်တို့သည် ပုံစံအပြောင်းအလဲ မရှိပဲ မျိုးဆက် တည်တံ့ခဲ့သဖြင့် ထိုအပင်မျိုးတို့ကို သက်ရှိကျောက်ဖြစ် ရုပ်ကြွင်းများဟု ခေါ် ဆိုကြလေသည်။

မျိုးစေ့ဖွက်၍ အရွက်ပြန့်သောသစ်ပင်မျိုးတို့သည် ပို၍ ရှင်သန် ကြီးထွားလွယ်ကြပြီးလျှင် အပင်သက် အားဖြင့် အပ်ရွက်ပင်မျိုးတို့လောက် မကြာရှည်ကြချေ။ ရှေးခေတ်က ထိုအပင်မျိုးတို့သည် ယခုခေတ်ထက်ပင် နေရာ အနှံ့အပြား၌ ပေါက်ရောက်ကြောင်း တွေ့ရသည်။ အမေရိကန် တျူးလစ်ပင်၊ ဆဆဖရက်ပင်တို့နှင့် မျိုးစိတ်တခုတည်းဖြစ်သော အပင်မျိုးကို မကြာသေးမီနှစ်များက တရုပ်နိုင်ငံ၌ တွေ့ရှိကြရာ ဤမျှမျိုးချင်းနီးစပ်ပါလျက် ကမ္ဘာ့အရှေ့စွန်းနှင့် အနောက်စွန်းကဲ့သို့ အလှမ်းဝေးကွာလှစွာ ပျံ့နှံ့ပေါက်ရောက်ပုံသည် ယခုကိုင် အဖြေရှာမတွေ့သေးသော ပြဿနာတရပ်ဖြစ်ပေသည်။

သစ်ပင်အမျိုးပေါင်း ထောင်သောင်းချီ၍ရှိသော်လည်း တမျိုးနှင့်တမျိုး ခွဲခြားရန် မခဲယဉ်းပေ။ ခွဲခြားကြည့်ရန် အလွယ်ဆုံးနည်းသည် ပန်းပုံစံများကို နှိုင်းယှဉ်ကြည့်ခြင်းဖြစ်သည်။ ပန်းပုံစံများမှာ သစ်ပင်တပင်၏ အရွက်၊ အပွင့်၊ အသီးတို့ကိုစုဆောင်းပြီးလျှင်မင်နှိပ်စက္ကူကဲ့သို့သောရေစုတ်စက္ကူများ၏အကြားတွင် ညှပ်၍ အလေးချိန်ဖြင့်ဖိနှိပ် အခြောက်ခံထားသော နမူနာ ပုံစံများ ဖြစ်သည်။ သစ်ပင်တမျိုးနှင့်တမျိုးသည်အရွက်ချင်းမတူနိုင်ကြချေ။ထို့ပြင် အပွင့်ချင်း အစေ့ချင်းလည်းမတူကြကြောင်းတွေ့ရလေသည်။

အချို့က ထင်းရှူး၊ ဝက်သစ်ချကဲ့သို့သော အချို့အပင်တို့သည် အပွင့်မပွင့်ကြဟု ထင်ကြသည်။ စင်စစ်အလွန်သေးငယ်၍ ပွင့်ဖတ်မဲ့အပွင့်များကြောင့် ထိုသို့ထင်ကြခြင်း ဖြစ်ပေသည်။ ပန်းသီးပင်၊ ချယ်ရီပင်၊ မက်မွန်ပင်၊ လိမ်မော်ပင်၊ သစ်သော့ပင်တို့သည် အရသာကောင်းသော အသီးများကို သီးသည်သာမက၊ လှပသော အပွင့်များလည်းပွင့်သည်။ အနောက်နိုင်ငံများ၌ အပွင့်လှသဖြင့် စိုက်ပျိုးကြသော သစ်ပင်တမျိုးမှာ တတိုင်းမွှေးပင်ဖြစ်လေသည်။ ဝက်သစ်ချ၊ ပေါ့ပလာ၊ မိုးမခနှင့် သစ်ချပွင့်တို့သည် တွဲလောင်းကျသော ကြောင်မြီးပန်းခိုင်မျိုးပွင့်သည်။ ထိုသို့ တွဲလောင်း ပွင့်သောကြောင့် ထိုပန်းခိုင်မျိုးကို မြင်တွေ့ရန်လွယ်ကူပေသည်။

မျိုးဆက်ပြန့်ပွားခြင်း။ ။ပန်းပွင့်ပန်းခိုင်များ၏ဝတ်ဆံဖိုမှ ဝတ်မှုန်များသည် လေဖြင့်လွင့်ပါရမှုရှင်း၊ လိပ်ပြာ၊ ပိတုန်းစသည့် ပိုးကောင်များ၏ သယ်ဆောင်မှုကြောင့်ရှင်း ဝတ်ဆံမရှိရာသို့ ရောက်ရှိပြီးလျှင် ဝတ်မှုန် ကူးယှက်ကြကာ မျိုးစေ့တည်၍ မျိုးဆက် ပေးကြလေသည်။ လေထဲတွင် လွင့်ပါလာသောဝတ်မှုန်သည် မျိုးတူသော အခြားအပင်တပင်၏ စေးကပ်ကပ်နေသည့် ဝတ်ဆံမတွင် သွား၍ကပ်သည်။ ယင်းသို့ ဝတ်မှုန် စပ်ယှက်ပြီးနောက်တွင် ပန်းပွင့်၏ အစေ့အိမ်တွင် အစေ့တည်လေသည်။ အချို့သော သစ်ပင်မျိုးတွင် အစေ့အိမ်၌ အစေ့ တစေ့ထက် အစေ့များ များပြားစွာ သန္ဓေတည်လေ့ရှိ၍ အစေ့အိမ်သည် အသီးအဖြစ် ကြီးထွားလာသည်။ အစေ့တည်ခြင်းသည် သစ်ပင်တပင် ပေါက်ဖွားရန် စတင်၍ သန္ဓေပျိုးလာခြင်းပေတည်း။ အစေ့တွင်း၌ အပင်လောင်း စ၍ သန္ဓေတည်ပုံမှာ ဤသို့ဖြစ်ပေသည်။

အစေ့တွင်းရှိ အပင်လောင်း ဖြစ်လာမည့် အင်္ဂါအစိတ်အပိုင်းတို့သည် အလွန်သေးငယ်သည်။ သို့သော် အပင်တပင်ဖြစ်လာရန် လိုအပ်သော အင်္ဂါအစိတ်အပိုင်းတို့ ပြည့်စုံသည်။ ထိုအစေ့ထဲ၌အပ်ခြည်နှင့်တူသော အမျှင်သေးသေးကလေးသည် တနေ့တွင် သစ်ပင်၏ပင်စည် ဖြစ်လာပေလိမ့်မည်။ ထိုအမျှင်၏ အဖျားတခုသည် အမြစ် ဖြစ်လာမည့် အပိုင်းဖြစ်၍ အစေ့မြစ်ဟုခေါ်သည်။ အခြား အဖျားပိုင်းသည် အညွန့်ပိုင်းဖြစ်၍ အစေ့ရွက်နှင့် အငုံတို့ ပါရှိရာ ထိုအပိုင်းကို အစေ့ညွှောက်ဟုလည်းခေါ်သည်။ ထိုအပင်လောင်းကလေးသည် စားရေရိက္ခာ အပြည့်အစုံနှင့် ထိုအစေ့အတွင်း၌ တည်ရှိနေသည်ဖြစ်ရာ ယင်းသို့ တည်ရှိနေပုံသည် အထုပ်ကလေးတထုပ်ကို မိုးကာထည်ဖြင့် ထုပ်ပိုးထားသကဲ့သို့ ဖြစ်ပေသည်။ အသီးအဖြစ် ကြီးထွားလာသော အစေ့အိမ်သည် ရင့်လာသောအခါ မိခင်သစ်ပင်မကြီးကို စွန့်ခွာ၍ မိမိ၏ ဘဝသစ်ခရီးကို စထင်လေသည်။

အချို့သစ်စေ့များတွင် အတောင်နှင့်တူသော အင်္ဂါအစိတ်အပိုင်းများ ပါရှိရာ ယင်းတို့အားဖြင့် သစ်စေ့များသည် လေထဲတွင် ပျံဝဲလွင့်ပါကြသည်။ အင်၊ ကညင်သီးများတွင် ငှက်တောင်နှင့်တူသော တောင်ပံပါရှိသည်။ အက်ရှပင်၏ အစေ့တွင် လှော်တက်နှင့်တူသော တောင်ပံ ပါရှိသည်။ လက်ပံ၊ မိုးမခစေ့တွင် လေထဲ၌ လွင့်ပါနိုင်သော မွေးနုကလေးများ ရှိသည်။ ပိတောက်စေ့၊ ယင်းမာစေ့၊ ပျဉ်းမစေ့၊ ဒန့်သလွန်စေ့တို့တွင်လည်း အတောင်နှင့်တူသော အင်္ဂါများ ပါရှိလေသည်။ ထိုအစေ့များသည် လေဖြင့် လွင့်ပါရာမှ မြေသို့ သက်ဆင်း ကျရောက်ပြီးသည့်နောက် သင့်တင့်လျောက်ပတ်သော ရေမြေဒေသတို့တွင် အချိန်တန်သည့်အခါ၌ အစို့အညှောက်ထွက်၍ အပင်ပေါက်ကလေးများ ပေါ်ထွက်လာလေသည်။

**သစ်ပင်ရှင်သန်ရန်လိုအပ်သောအချက်များ။** ။သစ်ပင်သည် သက်ရှိတမျိုး ဖြစ်သည်။ အကြောင်းမူ သစ်ပင်သည် အခြား သက်ရှိများနည်းတူ အသက်ရှူသည်။ အစာစားသည်။ တနေ့တခြား ထွားကျိုင်း ကြီးမားသည်။ မျိုးဆက် မပျောက်မပျက်စေရန် ပေါက်ဖွား ပေးလေသည်။

အစေ့မှ အပင်ဖြစ်လာပြီးနောက်တွင် သစ်ပင်တပင် ရှင်သန်ကြီးထွားရန်အတွက် လိုအပ်သောအချက်များ ရှိသည်။ ယင်း အချက်များနှင့် ပြည့်စုံနိုင်အောင် အပင်၏ အစိတ်အပိုင်းများက တာဝန်အသီးအသီးယူကာ ဆောင်ရွက်ကြရလေသည်။

လူတို့သည် အစာအာဟာရကိုမှီဝဲရမှ ကြီးထွားနိုင်သကဲ့သို့ သစ်ပင်တို့သည်လည်း မြေဩဇာကို စားသုံးရမှ ရှင်သန်နိုင်ကြရာ မြေဩဇာလိုအပ်ခြင်းသည် ပဌမအချက်ဖြစ်သည်။ ဒုတိယ လိုအပ်သော အချက်သည် ရေဖြစ်ရာ လူတိရစ္ဆာန်စသည့် သက်ရှိသတ္တဝါတို့သည် ရေမသောက်ရလျှင် အသက်သေနိုင်ကြသကဲ့သို့ သစ်ပင်သည်လည်း ရေမသောက်ရလျှင် သေနိုင်ပေသည်။ လေသည် သစ်ပင်များ ရှင်သန် ကြီးထွားနိုင်ရန် တတိယ လိုအပ်သောအချက် ဖြစ်သည်။ လူနှင့် တိရစ္ဆာန်သည် လေထဲတွင် ပါသော အောက်ဆီဂျင်ကို ရှူရမှသာလျှင် အသက်ရှင်နိုင်သကဲ့သို့ သစ်ပင်များသည်လည်း အောက်ဆီဂျင်ဓာတ် ရမှသာလျှင် အသက်ရှင်နိုင်လေသည်။ သစ်ပင်များအတွက် စတုတ္ထ လိုအပ်သောအချက်သည် အပူရှိန်ဖြစ်သည်။ သစ်ပင် အမျိုးအစားကို လိုက်၍ အပူရှိန်အနည်းအများ လိုအဖ်သည်။ ပန်းသီးပင်၊ လိမ်မော်ပင်၊သစ်သော့ပင်တို့သည် အပူရှိန်အနည်းငယ်သာလို၍ အေးသောအရပ်ဒေသများ၌ ပေါက်သည်။ကျွန်း၊ ပိတောက်စသောအပင်များကား အပူရှိန်များများလို၍ အပူပိုင်းဒေသများ၌ ပေါက်လေသည်။ သစ်ပင်များအတွက် အရေးကြီးသော ပဉ္စမ အချက်သည် အလင်းရောင် ဖြစ်ပေသည်။ အလင်းရောင်မရ

သောသစ်ပင်များ၊ သို့မဟုတ် အရိပ်အောက်တွင် ပေါက်ရသောသစ်ပင်များသည် သန်မာထွားကျိုင်းခြင်းမရှိပေ။ သစ်ပင်များ ရှင်သန်ရန် ဆင့်မလိုအပ်သော အချက်သည် မြေဆီလွှာ အမျိုးမျိုး ဖြစ်ပေသည်။ အချို့ သစ်ပင်များသည် ကျောက်စရစ်၊ ဂဝံကျောက် အစရှိသော မြေမာများ၌ ရှင်သန်၍ အချို့အပင်များသည် ရွှံ့စေးမြေ၌သာလျှင် ပေါက်ရောက် ဖြစ်ထွန်းနိုင်လေသည်။

**အမြစ်။** ။သစ်ပင်နှင့် လူ၊ တိရစ္ဆာန်တို့၏ ခြားနားချက်မှာ သစ်ပင်သည် လူ တိရစ္ဆာန်တို့ကဲ့သို့ ရွေ့ရှားသွားလာလှုပ်ရှား မပြုနိုင်ခြင်း၊ ခြေလက်အင်္ဂါအစိတ်အပိုင်းတို့ မရှိခြင်း ဖြစ်ပေသည်။ သို့သော် သစ်ပင်ကို (၁) အမြစ်၊ (၂)ပင်စည်၊ (၃) ရွက်အုပ်ဟူ၍ အဓိကအားဖြင့် အပိုင်းသုံးပိုင်းခွဲခြားနိုင်လေသည်။

သစ်ပင်၏ အဓိက အစိတ်အပိုင်း သုံးပိုင်းအနက် အမြစ်ပိုင်းသည် မည်သည့် အပင်မျိုးတွင်မဆို မြေကြီးထဲသို့ ထိုးဖောက်ဝင်ရောက်ပြီးလျှင် သစ်ပင်ကို ထိုနေရာ၌ တည်တံ့ခိုင်မြဲစွာ ရပ်တည်နိုင်အောင် မြေကြီးကို ကုပ်တွယ်ထားရသော တာဝန်ဝတ္တရားကို ဆောင်ရွက်သည်။ သစ်ပင်များရှင်သန်ကြီးထွားရန် လိုအပ်သောရေနှင့် ဓာတ်ဆားဟု ခေါ်သည့် ရေတွင်ပျော်ဝင်နေသော ဝတ္ထုပစ္စည်းများကို အမြစ်များက စုတ်ယူကြသည်။ ရေနှင့် ဓာတ်ဆားကို မြေဆီလွှာထဲတွင် လိုက်၍ ရှာဖွေစုတ်ယူကြသောကြောင့် အမြစ်များသည် မြေအောက်ထဲတွင် အဖက်ဖက်သို့ ဖြာထွက်နေသည်ကို တွေ့ကြရပေလိမ့်မည်။ အမြစ်များတွင် အမြစ်မကြီးနှင့် အမြစ်တက်များဟူ၍ ရာရှိ အမြစ်တက်များ၏ ထိပ်ဖျားအနီးတွင် အမြစ်မွေးဟု ခေါ်သော နူနယ်သည့် အမွေးများ ရှိလေသည်။ မြေဆီလွှာရှိ ရေနှင့်ဓာတ်ဆားရည်တို့သည် အမြစ်မွေးများမှတဆင့်သာလျှင် အပင်ထဲသို့ ဝင်ရောက်နိုင်၍ အပင်၏ အခြားအစိတ်အပိုင်းများမှ မဝင်ရောက်နိုင်ချေ။ သစ်ပင်၏ အထက်ပိုင်းတွင် အကိုင်းအခက်များ ဖြာ၍ထွက်သကဲ့သို့ သစ်ပင်၏ အောက်ပိုင်းဖြစ်သော အမြစ်များသည် မြေကြီးထဲတွင်ဖြာ၍ ထွက်ကြသည်။ ရေသောက်မြစ်သည် ရေရှိရာအရပ်သို့ အနက်ဆုံးဆင်းသက်ရသဖြင့် အရှည်ဆုံးအမြစ် ဖြစ်လေသည်။

**ပင်စည်။** ။သစ်ပင်တပင်တွင် အကိုင်း၊ အခက်၊အရွက်၊ အပွင့်၊ အသီးဟူသော အစိတ်အပိုင်းများရှိရာ ယင်းတို့ကို နေရာတကျဖြစ်စေရန် ပင်စည်ကထောက်ကူပေးရလေသည်။ အမြစ်များသည် မြေဆီလွှာရှိ ရေနှင့် ဓာတ်ဆားကို အရွက်များထံသို့ပို့ဆောင်လေရာ ပို့ဆောင်ရေးလမ်းကြောင်းသည် ပင်စည်ပင် ဖြစ်လေသည်။

ပင်စည်၏ အတွင်းသားဖြစ်သောသစ်သားကို အခေါက်ဟုခေါ်သည့် အခွံဖြင့် ဖုံးအုပ်လျက်ရှိသည်။ အခေါက်သည် သစ်ပင်အား ထိခိုက်ပွန်းရှခြင်းမှ ကာကွယ်ပေးသည်။ သစ်ခေါက်တို့သည် စက္ကူနီးပါး ပါးလှပ်သည်လည်း ရှိသည်။ လက်မပေါင်းများစွာ ထူသည်လည်း ရှိသည်။ အချို့အခေါက်များသည် ပါး၍မာပြီးလျှင်အပေါ်ယံ ချောသည်။ အချို့သည် ထူ၍ မာသည်။ အချို့ကား ထူ၍ ပွသည်။ အချို့အခေါက်သည် ထူ၍ ကြမ်းတမ်းပြီးလျှင် ပပ်ကြားအက်များထနေသည်။အခေါက်၏အရောင်သည်လည်း အဖြူ၊ အနီ၊ အဝါ၊ အညို၊ အနက် စသည်ဖြင့် အရောင်အမျိုးမျိုးဖြစ်သည်။ အရောင်နှစ်မျိုးသုံးမျိုး ကွက်ကျားပါဝင်သောအခေါက်မျိုးလည်း ရှိသေးသည်။ အချို့အခေါက်များသည် အပေါ်အရောင်တမျိုး၊ အတွင်းအရောင်တမျိုး ဖြစ်သည်။ ပင်မ၊ သို့မဟုတ် ပင်လုံးနှင့် အကိုင်း အခက်များ၏ အခေါက်သည်လည်း ခြားနားတတ်ပေသည်။ သစ်ပင်တို့တွင်များသောအားဖြင့် အခေါက်၏ အတွင်းသားသည် အရည်ရွှမ်းလျက် အပေါ်သားဖြစ်သော အပွေးသည် သွေ့ခြောက်ပြီးလျှင် ကွာကျနိုင်သော အရေခွံ ဖြစ်လေသည်။

အခေါက်နှင့် သစ်သားအကြားတွင် တိုးပွားလွှာ (ကမ်ဗီယမ်) ဟု ခေါ်သော ပါးလှပ်သည့် ဆဲလ်လွှာရှိသည်။ ထိုတိုးပွားလွှာသည် အဆက်မပြတ် ဖြစ်ပေါ်နေကာ သစ်ပင်၏ပင်လုံးနှင့် အကိုင်း အခက်များ ကြီးထွားစေရန် အသားတိုးပေးသည်။ ပင်လုံးနှင့် အကိုင်းအခက်များသည် အဖျားဖက်မှနေ၍ ရှည်ထွက်ခြင်းဖြင့် သစ်ပင်များသည် တဖြည်းဖြည်းရှည်၍ မြင့်မားလာကြသည်။ ပင်လုံးနှင့် အကိုင်းအခက်များ ရှည်ထွက်မြင့်မားသည်နှင့် တချိန်တည်းတွင် ယင်းတို့၏ အလုံးအထည်သည်လည်း တိုးပွားလွှာအားဖြင့်ပင် တဖြည်းဖြည်း တုတ်ခိုင်ကြီးမားလာကြလေသည်။

ပိုင်းဖြတ်ထားသော သစ်လုံး၏ ထိပ်ဝကိုကြည့်လျှင် မျက်နှာပြင် အသား၌ စက်ဝိုင်းသဖွယ် အရစ်များ အဆင့်ဆင့် ဖြစ်ပေါ်နေသည်ကို တွေ့ကြရပေလိမ့်မည်။ ထိုအရစ်များကို သက်ရစ်၊ သို့မဟုတ် နှစ်ကွင်းဟု ခေါ်သည်။ စက်ဝိုင်းတရစ်နှင့်တရစ် အကြား၌ရှိသော သစ်သားသည် တနှစ်အတွင်း တိုးပွားသောအသား ဖြစ်သည်။ အထက်တွင် ဆိုခဲ့သော တိုးပွားလွှာသည် နွေရာသီ ရေမရရှိသောအချိန်၌ တိုးပွားခြင်း ရပ်ဆိုင်းလာသဖြင့် အရစ်ကဲ့သို့ ဖြစ်ပေါ်လာစေသည်။ ထို့ကြောင့် အပင်သက်မည်မျှရှိကြောင်းကို ထိုအရစ်များကို ရေတွက်ကြည့်ခြင်းဖြင့် သိနိုင်သည်။ မိုးကောင်းသည့် နှစ်များတွင် အသက်ရစ်သည် ထူထဲ၍ ရာသီဥတုဖောက်ပြန်သည့် နှစ်များတွင် အသက်ရစ်သည် သေးသိမ်တတ်လေသည်။

တိုးပွားလွှာ၏ အရေးပါသော အခြားလုပ်ငန်းတရပ်မှာ အရွက်များက ထုတ်လုပ်သော အစာရိက္ခာတို့ကို သစ်ပင်၏ အစိတ်အပိုင်းအရပ်ရပ်သို့ ပို့ဆောင်ပေးခြင်းဖြစ်လေသည်။

သစ်သားဟုခေါ်သော ပင်စည်၏ အတွင်းသားကို အကာသားနှင့် အနှစ်သားဟု နှစ်မျိုး ပိုင်းခြားနိုင်သည်။ အကာသားဟု ခေါ်သော အပြင်ပိုင်းသည် အရောင်ဖျော့၍ အသားပွသည်။ အနှစ်သားဟု ခေါ်သော အတွင်းပိုင်းသည် အရောင်ရင့်၍ အသားမာကျောသည်။ အနှစ်သားသည် အကာသားထက် အဖိုးတန်သော သစ်သားဖြစ်လေသည်။

သစ်သားသည် ကျစ်လျစ်သိပ်သည်း၍ ပိတ်နေသည်ဟု ထင်ရသော်လည်း စင်စစ် သစ်သားတွင် အလွန်သေးငယ်၍ သာမန်မျက်စိဖြင့် မြင်နိုင်ရန် ခဲယဉ်းသော ပြွန်ချောင်းကလေးများရှိသည်။ အကာသား အတွင်းရှိ ထိုပြွန်ချောင်းကလေးများသည် အသက်ရှင်လျက်ရှိပြီးလျှင် ယင်းတို့အားဖြင့် အမြစ်များမှရေသည် ပင်မနှင့် အကိုင်းအခက်များသို့ ရောက်ရှိသည်။ ရေနှင့် ချက်လုပ်ပြီးအစာရိက္ခာအချို့ကို သိုလှောင်သောအပိုင်းကို ရေကြောဟု ခေါ်၍ အစာရိက္ခာ သယ်ယူပေးသော အပိုင်းကို အစာကြောဟု ခေါ်သည်။ အကာသားသည် နှစ်ကာလကြာမြင့်လာသည့်အခါ အရွက်များနှင့် အဆက်အသွယ်မရှိတော့ပဲ မာကျောလာ၍ တဖြည်းဖြည်း အနှစ်သား ဖြစ်လာလေသည်။

ပင်စည်သည် နှစ်ဖက်သွားလမ်းရှိသော လမ်းမကြီးနှင့် ဆင်ဆင်တူသည်။ အမြစ်မှ အရည်သည် သစ်သားရှိ ပြွန်ချောင်းများ အားဖြင့် အထက်သို့တက်၍ အရွက်မှ အစာရိက္ခာသည် တိုးပွားလွှာအားဖြင့် သစ်သားနှင့် အခေါက်အကြားမှ အောက်ပိုင်းသို့ ပျံ့နှံ့သည်။ ထို့ကြောင့် အခေါက်မှနေ၍ အနှစ်သားထိအောင် သစ်ပင်ကို ထွင်းထားလျှင် ထိုသစ်ပင်သည် ရိက္ခာပြတ်၍ သေတတ်သည်။ မြန်မာနိုင်ငံတွင် ခုတ်လှဲရမည့် ကျွန်းပင်များကို သင်းသတ်သည့်အခါ ထိုနည်းကို အသုံးပြုလေသည်။

အရွက်များ။ ။အကိုင်းအခက်အရွက်များရှိရာအပိုင်းကို ရွက်အုပ်ယူ၍ခေါ်သည်။ ရွက်အုပ်အပိုင်းသည် လေထဲတွင် လွင့်လျက်ရှိရာ အကိုင်းအခက်တို့သည် အရပ်ရှစ်မျက်နှာသို့ဖြာထွက်လျက် အရွက်တို့ဖြင့် ဝေဝေဆာဆာရှိပြီးလျှင် သစ်ပင်တပင်လုံး၏ ကျက်သရေကိုဆောင်ရာ အစိတ်အပိုင်းဖြစ်ပေသည်။ အချို့ရွက်အုပ်တို့သည် လုံးခြမ်းသဏ္ဌာန်ရှိ၍ အချို့သည် ပစ်ရမစ်ပုံသဏ္ဌာန် စသည်ဖြင့် သစ်ပင် အမျိုးအစားကိုလိုက်၍ ပုံအမျိုးမျိုး ဖြစ်လေသည်။

အရွက်များသည်လည်း ပုံစံအမျိုးမျိုးနှင့် အရွယ်အစားစားဖြစ်သည်။ ယင်းတို့သည် သစ်ပင်၏ တစ်သျှူးများ အသားများဖြစ်ပေါ်၍ အပင်ရှင်သန်ကြီးထွားစေရန် ရိက္ခာပြုလုပ်ပေးရသည်။ တနည်းအားဖြင့်ဆိုသော် အရွက်များသည် အပင်များ၏ ရိက္ခာအလုပ်ရုံ ဖြစ်လေသည်။ လူနှင့်တိရစ္ဆာန်တို့နည်းတူ သစ်ပင်များသည်လည်း ကာဗိုဟိုက်ဒြိတ်၊ ပရိုတင်း၊ အဆီအပြားနှင့် ဆီများပါဝင်သော အစာကို လိုသည်။ ကာဗိုဟိုက်ဒြိတ်သည် ကာဗွန်ဟိုက်ဒရိုဂျင်နှင့် အောက်ဆီဂျင်ပါသော ဓာတ်ပေါင်း ဖြစ်သည်။ ပရိုတင်းသည် နိုက်တြိုဂျင်ပါသော ဓာတ်ပေါင်း ဖြစ်သည်။ အပင်များအတွက် ယင်းတို့ လိုအပ်သော အာဟာရဓာတ်ပစ္စည်းများကို အစာအဖြစ်သို့ ရောက်အောင် အရွက်များက ချက်လုပ်ပေးကြရလေသည်။

အရွက်များသည် ယင်းတို့တွင်ရှိသော ကလိုရိုဖီးခေါ် အစိမ်းရောင်ခြဒ်၊ 'နေရောင်ခြည်၊ ကာဗွန်ဒိုင်အောက်ဆိုက်နှင့် ရေတို့ဖြင့် အစာချက်လုပ်သည်။ သစ်ပင်များတွင် သစ်ရွက်စိမ်းများသည် နေရောင်ခြည်ရနိုင်စေရန် ဘေးသို့ဖြန့်၍ တရွက်နှင့်တရွက် ထပ်မနေအောင် အကိုင်းအခက်များမှ အစီအစဉ်နှင့် ထွက်ကြသည်ကို သတိပြုပါလေ။ ကာဗွန်ဒိုင်အောက်ဆိုက်ကို သစ်ပင်သည် လေထဲမှရရှိ၍ ရေကို မြေဆီလွှာမှ ရရှိလေသည်။

နေရောင်ခြည်ကို အကြောင်းပြုပြီး သစ်ရွက်စိမ်းများတွင် ချက်လုပ်သော အစာသည် သကြားဖြစ်၍ ယင်းသည် ပျော်ဝင်နိုင်သော ကာဗိုဟိုက်ဒြိတ်ဖြစ်သည်။ ချက်လုပ်ပြီး သကြားအချို့ကို အပင်များသည် အသက်ရှူရာ၌ အသုံးပြု၍ အချို့သည် အပင်များ၏ ဆဲလျူလို့အဖြစ် ပြောင်းသွားသည်။ အချို့ကို အပင်စာဖြစ်သော ကစီအဖြစ် သိုလှောင်ထား၍ အချို့သည် ဆီနှင့်အဆီအဖြစ် ပြောင်းသွားသည်။ အချို့သည် မြေဆီလွှာရှိ ပျော်ဝင်နေသော ဓာတ်ဆားများမှရရှိသည့် နိုက်တြိုဂျင်၊ ဆာလဖာနှင့် ဖော့စဖောရပ်တို့နှင့် ပေါင်းစပ်ကာ ပရိုတင်းများ ဖြစ်သွားလေသည်။ ယင်းကား အရွက်များ၏ အစာချက်ပုံလုပ်ငန်းပေတည်း။

အရွက်များ၏ အခြားလုပ်ငန်းတခုမှာ လေစက်သဖွယ် ဆောင်ရွက်ရခြင်းဖြစ်သည်။ သစ်ပင်များသည် အခြားသက်ရှိများကဲ့သို့ အသက်ရှူရှိုက်ခြင်းပြုကြသည်။ အပင်များ အသက်ရှူရှိုက်သည့်အခါ အရွက်များသည် အောက်ဆီဂျင်ကို ရှူသွင်း၍ ကာဗွန်ဒိုင်အောက်ဆိုက်ကို ရှူထုတ်ပစ်သည်။ ထိုဓာတ်များ ရှူသွင်း ရှူထုတ်ခြင်းကို အရွက်များ၏ အောက်ဖက်ရှိ သေးငယ်သော အပေါက်ကလေးများ၊ သို့မဟုတ် ပါးစပ်ကလေးများဖြင့် ပြုလုပ်လေသည်။ အရွက်များ တခါတရံဆောင်ရွက်သော လုပ်ငန်းတခုမှာ အစာကို သိုလှောင်ထားခြင်း ဖြစ်လေသည်။

အရွက်များသည် နေရောင်ခြည်ကိုလည်း ကာကွယ်ပေးကြ၍ လေထဲသို့ ရေခိုးရေငွေ့များ ထုတ်လွှတ်ခြင်းဖြင့် အပူရှိန်ကိုလည်း လျော့စေသည်။ အမြစ်များမှ တင်ပို့သော ရေကို ရိက္ခာလုပ်ငန်းအတွက် လိုအပ်သမျှယူ၍ ပိုလျှံသမျှကို ရေငွေ့အဖြစ်ထုတ်လွှတ်သည်။ ထိုပြင် လေထဲမှ ကာဗွန်ဒိုင်အောက်ဆိုက်ဓာတ်ကိုယူ၍ အောက်ဆီဂျင်ဓာတ်ကို ပြန်

ထုတ်သဖြင့် လေကိုလည်း သန့်ရှင်းသွားစေသည်။ ထို့ကြောင့် နေပူသော နေ့တနေ့တွင် အရိပ်ကောင်းသော သစ်ပင်ကြီးတပင်အောက်သို့ ရောက်မိလျှင် အေးမြသော အရိပ်အာဝါသကို ခိုလှုံကြရ၍ သန့်ရှင်းလတ်ဆတ်သော လေကိုရှူရှိုက်ကြရလေသည်။ ယင်းသို့ဖြင့် နေအိမ် အနီး အနားပတ်ဝန်းကျင်၌ သစ်ပင်ကြီးများရှိလျှင် လေကောင်း လေသန့် ရနိုင်လေသည်။

**အဓိကရသစ်ပင်ကြီးများ။** ။သစ်ပင်များသည် ကမ္ဘာပေါ်တွင် အသက်အရှည်ဆုံးသော သက်ရှိများဖြစ်ကြသည်။ အမေရိကန် ပြည်ထောင်စုရှိ သစ်နီပင်ခေါ် ဆီကွိုင်းယားပင်ကြီးများသည် အနှစ် ၄,၀၀၀ ခန့် ရှိပြီဟု ခန့်မှန်းကြ၍ အမြင့်ပေ ၃၀၀ ကျော်ရှိသည်။ အနှစ် ၆,၀၀၀ ကျော်သော ထိုအပင်ကြီးမျိုးကို တွေ့ဘူးသည်ဟုလည်း ဆိုကြသည်။ သို့သော် ဤမျှအသက်ရှည်ကြ၍ အပင်မြင့်မားသော်လည်း ထိုအပင်ကြီးများသည် အိုမင်းပြီဟု မဆိုနိုင်ချေ။ ရုက္ခဗေဒပညာရှင်တို့၏ အလိုမှာ သစ်ပင်တို့သည် အသက်ကြီးရင့်၍ အိုမင်းပြီးမသေနိုင်။ သစ်ပင်တို့သေရခြင်းသည် အပင်ရောဂါများကြောင့်၎င်း၊ ဒဏ်ရာအန္တရာယ ရရှိသောကြောင့်၎င်း သေဆုံးရခြင်းဖြစ်သည်ဟု ဆိုကြသည်။ ထို့ကြောင့် သစ်ပင်များနှင့် အခြား သက်ရှိများတို့၏ ခြားနားချက်ကား သစ်ပင်တို့သည် အသက်ရှင်နေသမျှ ကာလပတ်လုံး ကြီးထွားနေကြခြင်းပင် ဖြစ်သည်။ ယင်းသို့ ကြီးထွားစေရန် အခေါက်နှင့် သစ်သား အကြားရှိ တိုးပွားလွှာများက အဆက်မပြတ် ပြုပြင်ပေးနေသည်ဟု ဆိုလေသည်။

သစ်ပင်များသည် အလွန်အသက်ရှည်ကြသဖြင့် အချို့အပင်ကြီးများသည် သမိုင်းဝင် အဓိကရ မှတ်တိုင်ကြီးများ သဖွယ်ဖြစ်သည်။ ဗုဒ္ဓ အယူဝါဒီတို့၏ အထွတ်အထိပ် ဖြစ်သော ဂေါတမ သဗ္ဗညု ဘုရားရှင် ပွင့်တော်မူခဲ့ကြသည့် ဘုရားရှင်တို့သည် သစ်ပင်ကို အမှီပြု၍ သဗ္ဗညုတဉာဏ်တော်ကို ရရှိပြီးလျှင် ဘုရားအဖြစ်သို့ ရောက်ခဲ့ကြသည်။ ဘုရားရှင်တို့ ပွင့်တော်မူရာ သစ်ပင်တို့ကို ဗောဓိပင်ဟု ခေါ်သည်။ ဂေါတမမြတ်စွာဘုရားသခင် ပွင့်တော်မူရာ ဗောဓိပင်သည် ညောင်ပင်မျိုးဖြစ်သည်။ နှစ်ပေါင်း ၂,၀၀၀ ကျော်က ဂေါတမ မြတ်စွာဘုရား ပွင့်တော်မူခဲ့သော ဗောဓိညောင်ပင်သည် မရှိတော့ပြီ ဖြစ်သော်လည်း ထိုအပင်၏ အကိုင်းတကိုင်းကို စိုက်ပျိုးရာမှ ပေါက်ပွားခဲ့သော ဗောဓိညောင်ပင်သည် သီဟိုဠ်ကျွန်းတွင် ရှိနေသေးရာ၊ ဗုဒ္ဓအယူဝါဒီတို့က ပရိဘောဂစေတီတဆူအဖြစ် အထွတ်အမြတ်ထားကာ ပူဇော်ကြသော အဓိကရ သစ်ပင်ကြီးတပင် ဖြစ်လေသည်။ အင်္ဂလန်ပြည်တွင် ဘုရင်နှင့် ပါလီမန် အာဏာလုကြသည့် အရေးတော်ပုံခေတ်က ရှိုင်ယယ်အုတ်ဟုခေါ်သော ဝက်သစ်ချပင်ကြီးကြောင့် ဒုတိယ ချားဘုရင်သည် ကရွမ်းဝဲတပ်များ၏ဘေးရန်မှလွတ်ကင်းခဲ့ရသည်။ ယင်းသို့သော သမိုင်းဖြစ်စဉ်များတွင် အရေးပါ၍ အဓိက မှတ်တိုင်ကြီးများ ဖြစ်ခဲ့ကြသော သစ်ပင်ကြီးများ အမြောက်အမြား ရှိပေသေးသည်။

ကမ္ဘာပေါ်တွင် အမြင့်ဆုံးသော သစ်ပင်များဟု အသိအမှတ်ပြုကြသည့်သစ်ပင်များကား အမေရိကန်ပြည်ထောင်စု ပစိဖိတ်သမုဒ္ဒရာ ကမ်းခြေဖက်ရှိ သစ်နီပင်များနှင့် ဒေါက်ဂလပ်ဖားထင်းရှူးပင်များ ဖြစ်သည်။ ဩစတြေးလီးယားတိုက်ရှိ ယူကလစ်တပ်ပင် (ငှက်ခြောက်ပင်၊ သို့မဟုတ် ပြည်လုံးချမ်းသာပင်) များသည် ကမ္ဘာ့ ဒုတိယအမြင့်ဆုံး အပင်များဟု ဆိုကြသည်။ အချင်းလုံးပတ် အကြီးဆုံး သစ်ပင်ဘိုးအေကြီးသည် မက္ကဆီကိုနိုင်ငံရှိ ဝါဟာကာမြို့ အနီးရှိ ရွာတရွာ၌ရှိသော တူလီပင်ကြီးဖြစ်သည်။ ထိုအပင်ကြီးသည် လုံးပတ် ၁၇၅ ပေ၊ အမြင့်ပေ ၁၅၀ ရှိ၍ ထို အပင်ကြီး၏ အသက်ကို အနှစ် ၃,၀၀၀ မှ ၅,၀၀၀ အထိ ခန့်မှန်းကြလေသည်။

**သစ်ပင်များ၏ အသုံးဝင်ပုံ။** ။သစ်ပင်များသည် လူ့လောကအတွက် လိုအပ်လှပေသည်။ အကြောင်းမူ သစ်ပင်များသည် လူ့လောကအတွက် အကျိုးကျေးဇူးများစွာ ပြုနိုင်ကြသောကြောင့် ဖြစ်သည်။ ယင်းတို့၏ အကျိုးပြုပုံတို့မှာ သစ်ပင်၏ အမြစ်များသည် မိုးရေ၊ လေ၊ ရေစီးတို့ကြောင့် မြေဆီလွှာများကို တိုက်စားခြင်းမှကာကွယ် ထိန်းသိမ်းပေးသည်။ သစ်ရွက်ဆွေးများသည် မြေဩဇာဖြစ်လာသည်။ မြေပေါ်၌ ထုထပ်စွာ ကြွေကျနေသော အရွက်များနှင့် အမြစ်များသည် မိုးရေကိုမြစ်ချောင်းများအတွင်း လျင်မြန်စွာ လျှောကျစီးဆင်းသွားခြင်း မပြုနိုင်လေအောင် စုတ်ယူ ထိန်းသိမ်းထားသည်။ သစ်ပင်များ ရှိနေသဖြင့် မြစ်ချောင်းများတွင် ရေစီး ရေလာမှန်သည်။ ထို့ပြင် သစ်ပင်များသည် လေကိုကာကွယ်ပေးသည့်ပြင် ယုတ်စွအဆုံး လမ်းဘေး၌ သစ်ပင်များရှိလျှင် နေအိမ်များ၌ ဖုန်တက်သက်သာလေသည်။

သစ်ပင်တို့သည် အေးမြသော အရိပ်အာဝါသကို ပေးသည်။ ယင်းတို့ရှိသော အနီးအနားပတ်ဝန်းကျင်သည် စိမ်းလမ်းစိုပြည်၍ သာယာ အေးချမ်းကာ အပူရှိန်လည်း သက်သာသည်။ လေလည်း သန့်ရှင်းသည်။ ပတ်ဝန်းကျင်ကို သာယာ ချမ်းမြေ့မှုပေးနိုင်သော သစ်ပင်များသည် လူတို့၏ စိတ်သဘာဝကိုလည်း ပြုပြင်ပေးနိုင်သည်။ ထို့ကြောင့် ကမ္ဘာ့ နိုင်ငံကြီးများတွင် သစ်ပင်စိုက် အသင်းများကိုပင် တည်ထောင်ထားကြလေသည်။

လူ့လောကအား သစ်ပင်တို့က ကျေးဇူးပြုမှုများမှာ ဤမျှ မဟုတ်သေးချေ။ လူတို့၏ အစားအစာ၊ အဝတ်အစား၊ နေအိမ်အဆောက်အအုံ၊ အသုံးအဆောင် ပစ္စည်းနှင့် ထင်းမီးစသော လူနေမှုအတွက်လိုအပ်သည့် ပစ္စည်းများစွာတို့ကို

သစ်ပင်များမှ ထုတ်လုပ်ရရှိသည်။ နေ့စဉ်နေ့တိုင်း လူတို့စားသောက်သုံးဆောင်နေသော အရာဝတ္ထုပစ္စည်း များစွာတို့သည် သစ်ပင်နှင့်မကင်းကြချေ။

စားသောက်သုံးဆောင်ရန် အတွက်ရင်း၊ ဘယဆေးဝါးပစ္စည်းအဖြစ်ရင်း သစ်ပင်အမျိုးပေါင်း များစွာတို့၏ အဖူး အပွင့် အသီးအရွက်တို့ကိုသာမက ရံဖန်ရံခါ အခေါက်အမြစ်များကိုပင် အသုံးချရသည်။ သစ်ခေါက်သည် ဆိုးဆေးများအတွက် အရေးပါအသုံးဝင်သည်။ သစ်စေးသစ်ဆီများကိုလည်း လူအသုံးဆောင်ပစ္စည်းများ လုပ်ကိုင်ရာ၌ အသုံးပြုကြသည်။ သစ်ပင်မှ ထုတ်လုပ်ရရှိသောပစ္စည်းများအနက် စက္ကူသည် အရေးပါသော လူသုံးပစ္စည်းတရပ် ဖြစ်သည်။ စက္ကူကို မှော်ပင်၊ ကောက်ရိုး စသည်တို့ဖြင့် ပြုလုပ်နိုင်သော်လည်း စက္ကူအကောင်းစားများကို သစ်သားပျော့ဖတ်များဖြင့်သာ လုပ်ကိုင်ရနိုင်လေသည်။

ထို့ပြင် ဓာတ်ပစ္စည်းများဖြင့် ရောနှောကာ ပစ္စည်း အသုံးအဆောင်များစွာကို ပြုလုပ်နိုင်သေးသည်။ သစ်သားတွင်ပါသော သကြားဓာတ်ကို ထုတ်၍ အယ်လကိုဟောအရက်ပျံ ပြုလုပ်ကြသည်။ သစ်သားမှ ထုတ်ယူရရှိသော ဆဲလျူလိုသည် ပလပ်စတစ်လုပ်ငန်းတွင် အရေးပါသော ဝတ္ထုပစ္စည်းတရပ် ဖြစ်လေသည်။

**သစ်ပင်များ ပျက်စီးရခြင်းအကြောင်းရင်း။** ။သစ်ပင်တပင်သည် နှစ်ကာလအတန်ကြာမြင့်မှသာလျှင် အပင်ကြီးအဖြစ်သို့ ရောက်ရှိနိုင်သည်။ သို့သော် သစ်ပင်များကို တိုတောင်းလှသော အချိန်အတွင်း တမဟုတ်ခြင်း ပျက်စီးအောင် ပြုလုပ်နိုင်သူတို့သည် လူသားများဖြစ်သည်။ လူတို့သည် သစ်ပင်များ၏ အကြီးဆုံးသော ရန်သူများဖြစ်သည်။ တောမီးရှို့ခြင်း၊ သစ်ပင်များကို အရမ်းမဲ့ ခုတ်လှဲခြင်းတို့ကြောင့် အချို့သစ်ပင်များ မျိုးပြုန်းခဲ့ရသည်။အချို့သစ်တောကြီးများပင် ဤနည်းဖြင့် ပြုန်းတီးခဲ့ရသည်။ သစ်ပင်များ သေကြေပျက်စီးစေသော အခြားရန်သူများမှာ သစ်ဖောက်ပိုးများ၊ မှိုများနှင့် အပင်ရောဂါများ ဖြစ်ကြလေသည်။

**သစ်ပန်းပု။** ။သစ်ပန်းပုသည် ပန်းပုပညာ၏ အကိုင်းခက်မကြီးတခု ဖြစ်သည်။ ပန်းပုပညာသည် နယ်ကျယ်ဝန်းသော ဗိသုကာ ပညာကိုမှီလျက် ပေါ်ပေါက်ခဲ့၍ ရုပ်လုံးရုပ်ကြွ၊ ပုံထုတ်ပုံဖော်၊ အပြောက်ထုနှင့် စပ်လျဉ်းသော အနုပညာတရပ်ဖြစ်ပြီးလျှင် မြန်မာ့ ရှေးရိုးလုပ်ငန်းကြီး ၁၀ မျိုးတွင် တခုအပါအဝင် ဖြစ်ပေသည်။

မြန်မာ့ရှေးရိုး လုပ်ငန်းကြီး ၁၀ မျိုးဟူသည်မှာ (၁) သစ်သား၊ သတ္တု၊ မြေစိုင်၊ ဆယ်စွယ်၊ အရိုးအမျိုးမျိုး စသည်တို့ဖြင့် ရုပ်လုံးရုပ်ကြွ၊ ပုံထုတ်ပုံဖော်ခြင်းကို ပြုသော ပန်းပုအတတ်၊ (၂) ကျောက်သားဖြင့် ပုံထုတ်ပုံဖော်သော ပန်းတမော့အတတ်၊ (၃) အုတ်အင်္ဂတေ သရွတ်တို့ဖြင့် ပုံထုတ်ပုံဖော်သော ပန်းရံအတတ်၊ (၄) ကြေး၊ သံစသည်တို့ဖြင့် ရုပ်လုံးရုပ်ကြွ ပုံထုတ်ပုံဖော်သော ပန်းတဉ်းအတတ်၊ (၅) ရွှေ၊ ငွေတို့ဖြင့် ပုံထုတ်ပုံဖော်သော ပန်းထိမ်အတတ်၊ (၆) ဖန်၊ မှန်၊ သားရိုးတို့နှင့်စပ်လျဉ်းသော ပန်းရွှဲအတတ်၊ (၇) သစ်စေးနှင့် စပ်လျဉ်းသော ပန်းယွန်းအတတ်၊ (၈) ပွတ်ခုံသော ပန်းပွတ်အတတ်၊ (၉) ရုပ်ပုံများ ရေးခြယ်သော ပန်းချီအတတ်၊ (၁၀) ခဲ၊ လို၊ စူး၊ ဆောက် စသည်တို့ကို ပုံထုတ်ပုံဖော်လုပ်ကိုင်သော ပန်းဘဲအတတ် ဟူ၍ ဖြစ်ကြပေသည်။ ထိုအတတ်များကို 'ပန်း' နှင့် အစပြုသော အမည်ဝေါဟာရများဖြင့် ခေါ်ဝေါ် ထားသဖြင့် 'ဘုရားမတင်၊ နတ်မတင်၊ လူတွင် ပန်း ၁၀ မျိုး'ဟု ဆိုရိုးပြုခဲ့ကြလေသည်။

ထိုအတတ်များ အားလုံးပင် ရုပ်လုံးရုပ်ကြွ၊ ပုံထုတ်ပုံဖော်ခြင်းနှင့် စပ်လျဉ်းကြသဖြင့် ပုံထုတ် ပုံဖော်ခြင်း ဟူသော မူလ ရေသောက်မြစ်ကြီးမှ ခွဲဝက်စိတ်ဖြာ ထွက်သွားခြင်းများ ဖြစ်ကြပေသည်။ ပန်းပုပညာတမျိုးတည်းပင် အသုံးပြုသော အရာဝတ္ထုပစ္စည်းကို လိုက်၍ အခေါ် အဝေါ် ကွဲပြားသွားသေးသည်။ သစ်သားဖြင့် ထုတ်လုပ်ထားလျှင် သစ်သားပန်းပုဟု ခေါ်ဆိုကြ၍ ဆင်စွယ်ဖြင့် ထုလုပ်ပုံဖော်ထားလျှင် ဆင်စွယ်ပန်းပု၊ ကျောက်သားဖြင့် ထုထွင်းပုံဖော်ထားခြင်းကို ကျောက်ဆစ် အတတ်ဟုလည်း ခေါ်ကြပေသည်။

ပန်းပုပညာအနေဖြင့် ကြည့်မည်ဆိုလျှင် အလွန်ရှေးကျသော သစ်ပန်းပုလက်ရာများကို အလွန်တွေ့ရခဲ၍ ကျောက်၊ သံ၊ ကြေးတို့ဖြင့် ပြုလုပ်သော ပန်းပုလက်ရာများကိုသာ အတွေ့ရများသည်။ အဘယ်ကြောင့်ဆိုသော် သစ်သားသည် ကျောက်၊သံ၊ကြေးတို့ကဲ့သို့ နှစ်ပေါင်း ထောင်နှင့်ချီ၍ မတည်တံ့နိုင်ပေ။ သို့သော် နှစ်ပေါင်း ၅,၀၀၀ ကျော်ထက် မနည်းသော ခေတ်ကာလမှ စ၍ သစ်ပန်းပုအတတ် ရှိနေခဲ့ကြောင်း အထောက် အထားများကို ပြနိုင်ခဲ့လေသည်။ ရှေးအကျဆုံးသော သစ်ပန်းပုလက်ရာတခုကို အီဂျစ်နိုင်ငံ၌ တွေ့ကြရရာ ခရစ်တော်မပေါ်မီ အနှစ် ၄,၀၀၀ ခန့်က လက်ရာဟု ခန့်မှန်းရ၍ ထုလုပ်ပုံစံနစ် အဆင့်အတန်းမြင့်သည်ကိုလည်း တွေ့ရှိကြရလေသည်။

စင်စစ် သစ်သားပန်းပုအတတ်သည် သစ်ပေါသောနိုင်ငံ၊ သစ် အလွယ်တကူရနိုင်သော နိုင်ငံများ၌ ရှေးအခါကပင် ခေတ်စားထွန်းကားခဲ့လေသည်။ ဂရိနှင့် ရောမနိုင်ငံတို့တွင် ရှေးသစ်ပန်းပုလက်ရာများကို မတွေ့ရှိရသော်လည်း ရှေးစာပေများတွင် သစ်ပန်းပုနှင့် စပ်လျဉ်းသော အကြောင်းခြင်းရာများ ပါရှိသဖြင့် ဂရိနှင့်ရောမနိုင်ငံတို့၌လည်း ရှေးရှေးအခါက သစ်ပန်းပုအတတ်သည် ထင်ရှားခေတ်စားခဲ့သည်ဟု ယူဆရပေသည်။

ဥရောပတိုက်တွင် သစ်ပန်းပုအတတ်သည် အလယ်ခေတ်၌အထွန်းကားဆုံးဖြစ်ခဲ့သည်။ အလယ်ခေတ် အကောင်းဆုံး သစ်ပန်းပုလက်ရာများကို စကင်ဒီနေးဗီးယန်း တိုင်းပြည်များ၏ အဆောက်အအုံတံခါးများတွင် တွေ့ရှိရ၍ ခရစ်နှစ်ကိုးရာစုမှ ၁၃ရာစုနှစ်များအတွင်းက လက်ရာများဖြစ်သည်။ ထိုလက်ရာများမှာ ထင်ရှူးသားဖြင့်ထုလုပ်ထား၍ ရုပ်လုံးများ၊ပန်းလိပ်အခွေအတွန့်များဖြင့်တန်ဆာဆင်ထားသည်။ ၁၄ ရာစုနှင့် ၁၅ ရာစုနှစ်များတွင် သစ်ပန်းပုအတတ်သည် ပြင်သစ်၊ ဂျာမနီ၊ ဣတလီနှင့် အင်္ဂလန်တို့၌ အလွန်ခေတ်စားခဲ့လေသည်။ ထိုခေတ်က အကောင်းဆုံး လက်ရာများကို ဘုရားဝတ်ကျောင်းများ အတွင်းရှိ အပြင်အဆင်၊ အသုံးအဆောင်များတွင် တွေ့ကြရသည်။ သူတော်စင်များ၏ ရုပ်လုံးများနှင့် သင်္ချိုင်းအုတ်ဂူပေါ်မှ ရုပ်လုံးများကိုလည်း သစ်သားဖြင့်ပင် ထုလုပ်ခဲ့ ကြသည်။ ဣတလီနိုင်ငံတွင် အဆောက်အအုံမျက်နှာကျက်များသည် သစ်ပန်းပုလက်ရာဖြင့် ပြီးသည်။ ထိုလက်ရာများကို အဆန်းတကျယ် ထုလုပ်ထားကြသော်လည်း အလယ်ခေတ်၏ ထယ်ဝါခန့်ညားမှုနှင့် ပညာသား မပါလှပေ။

ထိုခေတ်တို့မှ ကျော်လွန်ခဲ့ပြီး နောက်တွင် သစ်ပန်းပုပညာသည် ထိုနိုင်ငံများ၌ တဖြည်းဖြည်း မှေးမှိန်လာသည်။ သို့သော် ဆွစ်လူမျိုး တောင်သူလယ်သမားများသည် သစ်ပန်းပုအတတ်ကို စီးပွားရေးတရပ်အနေဖြင့် လုပ်ကိုင်နေကြဆဲ ဖြစ်သည်။ ဆွစ်ဇာလန်နိုင်ငံတွင် များသောအားဖြင့် နံရံကပ် နာရီအိမ်များ၊ အိမ်ထောင်ပရိဘောဂများကို သစ်ပန်းပုလက်ရာများဖြင့် မွမ်းမံကြသည်။ ပြင်သစ်နိုင်ငံ ကျေးလက်များတွင်လည်း သစ်ပန်းပု အတတ်ဖြင့် အသက်မွေးဝမ်းကျောင်း နေကြသူများ ရှိသေးသည်။ အင်္ဂလန်နှင့် အမေရိကန် ပြည်ထောင်စုတွင် သစ်ပန်းပု အတတ်ကို ယဉ်ကျေးမှု အနုပညာတရပ်အနေဖြင့် တိမ်မြုပ်သွားခြင်း မရှိလေအောင် ထိန်းသိမ်းပေးလျက်ရှိသည်။

အာဖရိကတိုက် အနောက်ပိုင်းဒေသနှင့် ကွန်ဂိုမြစ်ဝှန်းဒေသမှ နီဂရိုး (ကပ္ပလီ) များ၏ သစ်ပန်းပုလက်ရာများသည် အနုပညာ လက်ရာမြောက်ကြောင်း တွေ့ရသည်။ ယင်းတို့သည် ယင်းတို့၏ ယုံကြည်ကိုးကွယ်မှု အတွက်သာ နတ်ရုပ်များကို ထုလုပ်ခြင်းဖြစ်၍ အနုပညာတရပ်အနေဖြင့် လုပ်ကိုင်ကြသည်မဟုတ်ပေ။

အရှေ့နိုင်ငံများတွင် အိန္ဒိယ၊ တရုပ်၊ ဂျပန်နိုင်ငံတို့၌ သစ်ပန်းပုအတတ်သည် ရှေးပဝေဏီခေတ်ကပင် ထင်ရှားခေတ်စား ခဲ့လေသည်။ တရုပ်နှင့်ဂျပန်တို့သည် သစ်ပန်းပုအတတ်တွင် အလွန် စိတ်သန်သူများဖြစ်သည်။ ယင်းတို့သည် သစ်ပန်းပုရုပ်တုရုပ်လုံးများကို ဆေးရောင်ခြယ်လေ့ရှိသည်။ ရွှေပိန်းချလေ့လည်း ရှိသည်။ အိန္ဒိယ နိုင်ငံတွင် ဗုဒ္ဓမြတ်စွာဘုရား ပွင့်တော်မမူမီကပင် ရုပ်လုံးရုပ်တုများကို လုပ်ခဲ့ကြောင်း အထောက်အထားများ ရှိသည်။ အိန္ဒိယနိုင်ငံ အချို့မြို့ကြီးများတွင် ခရစ်တော်မပေါ်မီ နှစ်ပေါင်း ၂,၀၀၀ ခန့်က ထုလုပ်ခဲ့သော ပန်းပုလက်ရာများ ရှိနေသေးသည်ဟု သိရှိရပေသည်။ အိန္ဒိယနိုင်ငံသည် သစ်ပေါသော နိုင်ငံဖြစ်ပေရာ သစ်ပန်းပုအတတ်သည်လည်း ထွန်းကားခဲ့မည်မှာ ယုံမှားဖွယ်ရာ မရှိချေ။

အိန္ဒိယယဉ်ကျေးမှု ပညာရပ်များသည် တကောင်းအဘိရာဇာခေတ်ကပင် မြန်မာနိုင်ငံတွင်းသို့ ရောက်ရှိလာခဲ့ရာ ပန်းပုအတတ်ပညာသည်လည်း ပါဝင်ခဲ့ပေသည်။ ပုဂံခေတ်တွင် ပန်းပုအတတ်သည် အဆင့်အတန်း တိုးပွားလာခဲ့ရာ ဘုရားပုထိုးများတွင် ရုပ်လုံးရုပ်တု များစွာကို သုတေသီများ တွေ့ရှိခဲ့ကြရသည်။ ပုဂံပြည့်ရှင် ကျန်စစ်သားဘုရင်နတ်ရွာမစံမီ နာမကျန်းဖြစ်နေခိုက် သားတော်ရာဇကုမာရ်သည် ထီးမွေနန်းရိုက်ကိုမရရှိသော်ငြားလည်း ခမည်းတော်၏ ကျေးဇူးတရားကို အောက်မေ့၍ ရွှေဖြင့်ပြီးသော မြတ်စွာဘုရား၏ ရုပ်ပွားတော်တဆူကို ပြုလုပ်၍ ခမည်းတော်အတွက် ထိုဆင်းတုတော်ကို ပူဇော်ကြောင်း မြစေတီကျောက်စာ၌ အထင်အရှား ဖော်ပြ ပါရှိလေသည်။ အလောင်း စည်သူ မင်းသည်လည်း ဘေးလောင်းတော်၊ ဘိုးလောင်းတော်တို့၏ ရုပ်တုများကို ထုလုပ် ကိုးကွယ်ကြောင်း ရာဇဝင်သမိုင်းများ၌ ဆိုထားလေသည်။ပုဂံခေတ်ဘုရားဌာပနာများတွင် ကျောက်သား၊ ကြေးသတ္တုတို့ဖြင့်ပြီးသော ပန်းပုလက်ရာများကိုသာ အတွေ့ရများ၍ သစ်ပန်းပုလက်ရာဟောင်း အဆွေးအပိုင်းအစများကို တခါတရံမျှသာ တွေ့ရသည်။မြန်မာနိုင်ငံ ရာသီဥတုကြောင့် သစ်ပန်းပု လက်ရာတို့သည် ကြာမြင့် ရှည်လျားသော နှစ်ကာလကိုမကျော်လွန်နိုင်ကြသဖြင့် ယင်းသို့ အတွေ့ရနည်းခြင်း ဖြစ်ပေမည်။

အင်းဝခေတ်တွင်သစ်ပန်းပုအဟတ်သည်အထူးတိုးတက်ပြောင်မြောက်ခဲ့ဟန် တူပေရာ ထိုအထောက် အထားကို ဒုတိယမင်းခေါင်၏လက်ထက် အရှင်မဟာရဋ္ဌသာရ သီကုံးရေးသားသော တန်တားဦးတည် မင်္ဂလာစေတီ မော်ကွန်း၌ ဤသို့တွေ့ရပေသည်။

''အရွယ်အိုမင်း၊ ရှိက်တွင်းပါးစောင်၊ ပုဏ္ဏားယောင်ကား၊ ဟန်ဆောင်တင့်တယ်၊ ဘွဲ့စလွယ်နှင့်၊ စံပယ်ပစ်တင်၊ဝတ်စားဆင်၍၊ ရေစင်နေဇာ၊ ထက်ကြပ်ပါလျက်၊ ဝါဝါဝင်းဝင်း၊ ခရုသင်းလည်း၊ ကိုင်လျှင်းတုံပြီး၊ ရှေးတီးဗြဟ္မာ၊ သဘာဝဖြင့်၊ ဆူဆူဖွေးဖွေး၊ နဖူးရေးလျက်၊ တပ်စွေးစားကွမ်း၊နှုတ်ခမ်းဖွင့်အုပ်၊ မေးလှုပ်လှုပ်နှင့်၊ အရုပ်မထင်၊ အရှင်ဟူများ၊ လက်ဝါးပြကြည့်၊ ခတ်လှည့်မျက်လုံး၊ ခပ်ပြုံးရယ်ရွှင်၊ ပီပြင်တွတ်တွတ်၊ ရွတ်သည့်ဂါထာ၊ နားဝင်သာလျက်၊ လာလာ



သစ်ပန်းပုပညာသည် အဖက်ဖက်မှ မြင်နိုင်အောင် ရုပ်လုံးဖော် ထုလုပ်ရသည်။

ဆသူ၊ လူထိုမျှကို၊ အံ့ဘအမယ်၊ ချစ်ဖွယ်ခေါ်ဝေါ်၊ တွေငေါ်ညောင်းညောင်း၊ အကြောင်းပြန်ခြင်း၊ သီဟိုဠ်မင်းက၊ သတင်းကျော်မွန်း၊ ရွှေနန်းသခင်၊ နတ်ရှင်ထံမှာ၊ ကိုယ်စားလာသည်၊ ငါ၏သက်ရှယ်၊ နှစ်ရှစ်ဆယ်ဟု၊ အကယ်တံတံ၊ ဆိုကုံထံသည်၊ ထွက်သံသက်သက် ညွှင်းညွှင်းတည်း။''

ပုဏ္ဏားရုပ်တုကြီးအား အသက်ဝင်စွာ ပြောင်မြောက်သောလက်ရာဖြင့် ထုလုပ်ထားပုံကို ရှင်မဟာရဋ္ဌသာရက ကွင်းကွင်းကွက်ကွက် တင်ပြနိုင်အောင် သရုပ်ပေါ်လွင်စွာဖြင့် ချီးကျူးဖွဲ့ဆိုထားလေသည်။ ထိုသစ်ပန်းပု ရုပ်တုကြီး၏ အနုပညာမြောက်မှုကြောင့် ရွှေပွဲတော်လာ ပရိသတ်တို့မှာ နယုန်လ နေပူကျဲကျဲအချိန်တွင်ပင် လူချင်းကြပ်သိပ်တိုးဝှေကာ ချွေးသံရွှဲရွှဲနှင့် ညောင်းညာရန်ပင် သတိမရ၊ ဆာလောင်ရန်လည်းမသိ၊ တမေ့တမော အံ့သြမကုန် ဖြစ်ကြရပုံကို —

''သစ်ရုပ်ပုဏ္ဏား၊ အရှင်လားသို့၊ စကားတွတ်တွတ်၊ဆိုသတတ်ဟု၊ ခြေချတ်လက်ချတ်၊ မြေကြီးခတ်မျှ၊ လာလတ်သသူ၊ ရှင်နှင့် လူကား၊ ယှဉ်တူရှင်အပ်၊ အထပ်ထပ်တည့်၊မလပ်စေ့စေ့၊ တိုးကြွေ့သွား၊ ကိုယ်ငွေ့ ခြောင်းခြောင်း၊ နေရှိန်ပြောင်းလည်း၊ ညောင်း၏မဟူ၊ ပူ၏မမှတ်၊ မွတ်၏မထင်၊ ဝမ်းပန်းရွှင်လျက်၊ ရှုချင်မရဲ၊ တလဲလဲလျှင်....''ဟူ၍ဆက်လက်ဖော်ပြပြန်လေသည်။

ဒုတိယမင်းခေါင်၏ ကောင်းမှုတော် မင်္ဂလာတန်တားဦးတည် စေတီတော်ကြီး၏ ဌာပနာတိုက်ခန်း ပိတ်သည့် ပွဲတော်တွင် ပွဲတော်ကြီးစည်ကားရန် ထိုပုဏ္ဏားရုပ်ကြီးကိုသာတန်ဆောင်းမဏ္ဍပ်အတွင်း၌ ထားရှိသည် မဟုတ်သေး။ အခြားတန်ဆောင်းမဏ္ဍပ်များအတွင်း၌လည်း အခြားလှုပ်နိုင် ရှားနိုင်သောရုပ်လုံး၊ ရုပ်တုများရှိသေးကြောင်းကို 'ထိုမှတပါး ရုပ်ရှင်များလည်း၊ စကားတမည်၊ မဆိုသည်သာ၊ ထူးခြားစွာ၏'၊ ဟု ရှင်မဟာရဋ္ဌသာရစာဆိုတော် အရှင်မြတ်က ထပ်လောင်း တင်ပြ ထားသည်ကိုတွေ့ရလေသည်။

အင်းဝခေတ်နောက်ပိုင်း၌လည်း သစ်ပန်းပုအတတ်သည် ဆက်လက် ထွန်းကားကြောင်းကို ၁၀၁၂ ခုနှစ် ပဌမဝါဆိုလဆန်း ၅ ရက်နေ့တွင်ရေးထိုးသော သာလွန်မင်းတရားကြီး၏ ကောင်းမှုဖြစ်သည့် စစ်ကိုင်းမြို့၊ ရာဇမဏိစူဠာမဏိစေတီခေါ် ကောင်းမှုတော်ကြီး၏ ကျောက်စာ စာကြောင်းရေ ၃၈-၃၉ တွင်—

''ထိုမှတပါးလည်း၊ ရတနာခုနစ်ပါးတို့ဖြင့် ပြီးသော၊ရေတွက်ခြင်းငှာ မတတ်နိုင်သော၊ သစ်ရုပ်တုတို့ကိုလည်း ကျမ်းဂန်နှင့်အညီအစီအစဉ်သင့်စွာဌာပနာတော်မူ၏။''

ဟု ပါရှိသည်။ ယင်းသည်ကို ထောက်၍ ဘုရားဌာပနာများတွင် သစ်ရုပ်တုများလည်း ပါရှိကြောင်း သိရှိရလေသည်။

မြန်မာလူမျိုးတို့သည် အဆောက်အအုံ ထုပိကာ၊ ဒုရင်၊ ပန်းဆွဲ၊ တိုင်ပုံ၊ ပြာသာဒ်များမှအစ အုန်းမှုတ်၊ ရေသောက်ခွက် အရိုးကိုင်း၊ ရေချမ်းစင်၊ ယောက်မ၊ လှော်ကားဦး၊ လှေဦးငှက်၊ ပဲ့တုံး၊ မောင်းတိုင်၊ အုန်းမောင်း၊ ကလယ်ခြေစသော လူသုံးပစ္စည်းများအထိ သစ်ပန်းပုလက်ရာများဖြင့်



မြန်မာတို့သည် အဆောက်အအုံများမှအစ လူသုံးပစ္စည်းများအထိ သစ်ပန်းပုလက်ရာများဖြင့် ရုပ်လုံးဖော်ခဲ့ကြသည်။

ရုပ်လုံးရုပ်ကြွ ဖော်ခဲ့ကြသည်။ ယင်းသို့ ရုပ်လုံးဖော်ကြရာ၌ ဇာတ်နိပါတ်တော်များမှ သရုပ်ဖော်ခန်းများ၊ လူရုပ်၊ နတ်ရုပ်၊ ပြဟ္မာရုပ်၊ သိကြားရုပ်၊ ဘီလူးရုပ်၊ ဂဠုန်၊ နဂါး၊ ကိန္နရီ ကိန္နရာရုပ်များအပြင် ဆင်ရုပ်၊ ခြင်္သေ့ရုပ် စသည့်တိရစ္ဆာန်ရုပ်များ၊ ပန်းခက်၊ ပန်းပြောက် အနုအယဉ် အနွယ်အလိပ်များကို ကြွရှသောလက်ရာများဖြင့် ပုံစံအမျိုးမျိုး ပြုလုပ်ထားကြသည်ကို မြန်မာနိုင်ငံအရပ်ရပ်ရှိ ဘုရားတန်ဆောင်းနှင့် ဘုန်းကြီးကျောင်းများ၌ တွေ့ကြရသည်။ ရှေးခေတ် သစ်ပန်းပုလက်ရာကောင်းများကို စလင်း၊ ပခုက္ကူ၊ အမရပူရ စသော အထက်မြန်မာနိုင်ငံ ဘုရားတန်ဆောင်းနှင့် ဘုန်းကြီးကျောင်းများ၌ ပို၍တွေ့ရှိနိုင်လေသည်။

မြန်မာ သစ်ပန်းပု လက်ရာများတွင် ကနုတ်ပန်း၊ ယိုးဒယားပန်း၊ ခြူးပန်းတို့ဖြင့် တန်ဆာဆင်အပ်သော ခြင်္သေ့၊ ကိန္နရီ ကိန္နရာ၊ နတ်၊ ပြဟ္မာ၊ တိုးနရား၊ ခြူး၊ ဘီလူး၊ နဂါး၊ ဂဠုန်၊ ဟသာ်စသော ရုပ်လုံးများနှင့် ဒုရင်၊ တော်ရနေ၁င်၊ စိုင်ပေါင်၊ ထုပိကာ၊ ပန်းဆွဲ စိန်တောင်၊ မှော်ပွင့်၊ မှော်ပျံ၊ အပြောက်စသည်များကို များသောအားဖြင့် တွေ့ရှိကြရာ ပကတိပုံအတိုင်း ထုလုပ်နိုင်စွမ်းသော်လည်း ဒေသ ပတ်ဝန်းကျင် အငွေ့အသက်နှင့် ရိုးရာယဉ်ကျေးမှု အစဉ်အလာ အတိုင်း ထုလုပ်ကြသဖြင့် ယင်းကဲ့သို့ အပြင်အဆင် အမွမ်းအမံများ ပါရှိခြင်း ဖြစ်ပေသည်။ များသော အားဖြင့် ဘုရား တန်ဆောင်း ဂူကျောင်း ပြာသာဒ်များရှိ သစ်ပန်းပု ရုပ်လုံး ရုပ်ကြွများကို ရွှေပိန်းချ၍ သော်၎င်း၊ ဆေးရောင်ခြယ်၍သော်၎င်း တွေ့ရတတ်ပေသည်။

သစ်သားသည် ကျောက်၊ ကြေး၊ သံ စသည်တို့ကဲ့သို့ နှစ်ကာလ ပရိစ္ဆေဒ ကြာမြင့်စွာ မတည်တံ့နိုင်ပဲ ဟောင်းဆွေးနိုင်သဖြင့် ကြီးမားသော ရုပ်လုံးများကို ထုလုပ်ရာတွင် သစ်သားကို အသုံးနည်း၍ ကျောက်၊ ကြေး၊ သတ္တုများကို အသုံးများလေသည်။ ထို့အပြင် သစ်သားကြော သိပ်သည်းမှုနှင့် ဖွဲ့စည်းပုံ အနေအထားတို့ကြောင့် ကြီးမားသော အရာဝတ္ထုပစ္စည်းများကို သစ်ပန်းပုဖြင့် ထုလုပ်၍ မဖြစ်နိုင်ချေ။ ထို့ကြောင့် သစ်ပန်းပုကို အယူဝါဒဆိုင်ရာ အဆောက်အအုံများ၊ လူနေအိမ်များ၊ အတွင်းဖက်အပြင်အဆင်များ၊ အိမ်ထောင် ပရိဘောဂ စသော လူ့ အသုံးအဆောင် ပစ္စည်းများကို အလှ အပ မွမ်းမံရာ၌သာ အသုံးများကြလေသည်။

ပန်းပုထုလုပ်ရာတွင် အသုံးပြုကြသော ကျောက်တုံး၊ ကျောက်ပြား၊ ကြေး၊ သံ အစရှိသည့် ပစ္စည်းများအနက် သစ်သားသည် အပေါဆုံးနှင့် အပျော့ဆုံးပစ္စည်း ဖြစ်သော်လည်း ပန်းပုထုလုပ်ရာတွင် ကျန်ပစ္စည်းများ ထုလုပ်ရသည်ထက် ခက်ခဲသည်။ ထို့ပြင် သစ်သား ဟူသမျှကိုလည်း ပန်းပုထု၍ မရချေ။ သစ်သား အမျိုးအစား အပျော့အမာကို လိုက်၍ ထုလုပ်ရာ၌ လွယ်ကူခြင်း၊ သို့မဟုတ် ခက်ခဲခြင်း ရှိလေသည်။

အနောက်နိုင်ငံ ပန်းပုဆရာတို့ အသုံးများသော သစ်အမျိုးအစားမှာ ဝက်သစ်ချ၊ ထင်းရှူး၊ မဟောဂနီ၊ ကျွန်း စသည်တို့ ဖြစ်၍ မြန်မာ ပန်းပုဆရာတို့ကမူ နှော၊ ကျန (ကြတ်နန်)၊ တမလန်း၊ သင်းဝင်၊ ယင်းမာ၊ ကျွန်း၊ ယမနေ စသည့် သစ်မျိုးကို သုံးကြသည်။ အဆိုပါသစ်များအနက် ဝက်သစ်ချသားသည် ပန်းပုထုရန်အကောင်းဆုံး ဟု ဆိုကြသည်။ ဝက်သစ်ချသားသည် အသားစင်း ဖွဲ့စည်းပုံ ကျစ်လျစ် သိပ်သည်း၍ အရောင်လည်း အလှဆုံးဟု ဆိုကြလေသည်။

သစ်ပန်းပု ပညာ၏ မူလ ပင်မ ဖြစ်သော ပန်းပုပညာသည် ကျယ်ဝန်းသော အနုပညာ တရပ်ဖြစ်သည်။ ပန်းချီပညာသည် တဖက်မြင် သရုပ်ဖော်ရသော်လည်း ပန်းပုပညာသည် အဖက်ဖက်မှ မြင်နိုင်အောင် ရုပ်လုံးဖော်ရလေသည်။ တနည်းအားဖြင့် လှည့်၍ တွေးဆရပြန်လျှင် ပန်းပုဆရာသည် ရုပ်လုံးကို အကောင်အထည် ထုထည် အလိုရှိသည့်အတိုင်း ထုလုပ်တင်ပြနိုင်ခွင့်ရသည်။ ပန်းချီဆရာကမူ တဖက်တည်းဖြင့် ထုထည်ပေါ်အောင် ရေးခြယ် တင်ပြရသဖြင့် ရုပ်လုံးမဟုတ်သည်ကို ရုပ်လုံး ပေါ်လာအောင် ရေးခြယ်ပြရခြင်းဖြင့် ပိုမိုတာဝန်ကြီးမားသည်ဟု ဆိုနိုင်ပြန်သည်။ စင်စစ်အားဖြင့် ထိုပညာ နှစ်ရပ်စလုံးသည် သူ့နည်းနှင့်သူ ခက်ခဲသည်ချည်းသာ ဖြစ်ပေမည်။ သို့သော် ရုပ်ထုဆရာ ပန်းပုပညာရှင်သည် ရုပ်လုံးကို အချိုးအဆစ် အပြောင်းအဖွဲ့ မှန်ကန်၍ ပုံကျနစွာ ရေးထုတ်တတ်ပါမှ ပုံမှန်ထုလုပ်နိုင်သည်ဖြစ်ရာ ပုံရေးပညာကိုလည်း အခြေခံအားဖြင့် သိနားလည်ထားရန် လိုအပ်ပေသည်။ ရုပ်ထုဆရာသည် မိမိထုလုပ်မည့် ရုပ်လုံးကို မျက်စိထဲ မြင်လာနိုင်ရလေသည်။

သစ်ပန်းပု အတတ်ကို သင်ယူစ လက်သင်တယောက်သည် ခါးထက်ထက် နှစ်ချောင်းနှင့် ဆောက်ကောင်းကောင်း တလက်ရှိလျှင် လုံလောက်ပေသည်။ အနုစိတ် ပုံဖော်ရမည့် ကရိယာမျိုး မလိုသေးပေ။ မောင်းချခါးထက်ထက် တချောင်း ရှိလျှင်လည်း အလုပ်ဖြစ်နိုင်သည်။ ခါးသွားသည် သင်ခုန်းခါးသွားတမျှ ထက်ရန် လိုအပ်သည်။ သို့မှသာ ထွင်းလုပ်ရာ၌ သက်သာလွယ်ကူ၍ လက်ရာလည်း ချောမွေ့နိုင်လေသည်။

ထိုလက်သင်သည် အစပဌမတွင် တလက်မ၏ လေးပုံတပုံ၊ သို့မဟုတ် ရှစ်ပုံတပုံခန့်ထူသော သစ်သားအပျော့စားဖြင့် စတင်လေ့ကျင့်သင့်သည်။ ရှေးဦးစွာ သစ်သား၏မျက်နှာပြင်တွင် မိမိထုလုပ်လိုသော ပစ္စည်း၏ ပုံကြမ်းကို ရေးဆွဲရမည်။ ထို့နောက်မှ ခါးငယ်ဖြင့် တချက်ပြီးတချက် လှီးချကာ ပုံကြမ်းဖော်ရလေသည်။ ဒုတိယအကြိမ် လေ့ကျင့်ရာ



သက်ဝင်လှုပ်ရှားနေသကဲ့သို့ အားမာန်ပါအောင် ထုလုပ်ထားသည့် ရွှေခေတ်လက်ရာတခု

၌မူ အသုံးပြုသော သစ်သားသည် ပဌမအကြိမ်ကထက် အနည်းငယ် ပို၍ ထူစေရသည်။ ဘေးစွန်းများကိုလည်း ချောပြီးသား ဖြစ်စေရသည်။ ထိုအကြိမ်တွင် ရိုးရိုးရုပ်လုံး တခုလုံးကို ပုံဖော်ရပေမည်။ ယင်းသို့ ပြုလုပ်ရန် ပန်းပု လက်သင်သည် မိမိအလိုရှိသော အရွယ်အစားသစ်တုံးကို ရွေးချယ်ရသည်။ သို့မဟုတ် ဖြတ်တောက်ယူရသည်။ ထို သစ်တုံး၏ နှစ်ဖက်မျက်နှာပြင်တွင် မိမိထုထွင်းမည့်ရုပ်လုံး၏ ပုံကြမ်းကို ရေးဆွဲရသည်။ ပဌမတွင် အရှေ့ဖက်နှင့် အနောက် ဖက်မှ စတင်လှီးချ ပုံဖော်ပြီးနောက်မှ ဘေးမျက်နှာပြင်ကို ပုံဖော်ရလေသည်။

မြန်မာနည်း အရ ပန်းပုပညာတွင် အကြမ်းဖျင်းအား ဖြင့် (၁) ဖို့နည်း၊ (၂) ဖဲ့ထုတ်နည်း၊ (၃) သွန်းနည်းဟူ၍ သုံးမျိုးရှိရာ သစ်ပန်းပုနှင့် ဆင်စွယ်ပန်းပုတွင် ဖဲ့ထုတ်နည်း ကို အသုံးချရသည်။ ထိုနည်းသည် မလွယ်လှချေ။ နိမ့်ရှိုင်း သော နေရာကို ရွေးချယ်၍ လိုသလို ဖဲ့ထုတ်ရ ထုထွင်းရ သဖြင့် လက်လွန်သွားခဲ့သော် ပြန်၍ ပြုပြင်မရနိုင်သော နည်း ဖြစ်သောကြောင့် အထူးဂရုစိုက် ထုထွင်းရသည်။ ထိုနည်းဖြင့် ထုလုပ်သည့်အခါ လိုရာမျက်နှာပြင်၌ဖြစ်စေ၊ ရုပ်လုံးတခုလုံး၌ ဖြစ်စေ အမြင့်ဆုံး နေရာကို မှတ်သား ချန်လှပ်ပြီးလျှင် နက်ရှိုင်းရာအလိုက် ထုဖဲ့ ထွင်းထုတ်ခြင်း ဖြင့် ပုံစံကို တဆင့်ပြီးတဆင့် ဖော်လေသည်။ သစ်ပန်းပု၊ ဆင်စွယ် ပန်းပုတို့ကား ခက်ခဲ လက်ဝင်လှပေသည်။ တိုး တက်လာသော ခြစ်ဆူး၊ ဆောက်၊ စို့ စသော ကရိယာ တန် ဆာ ပလာများဖြင့် မျက်နှာပြင် ပုံစံတွင် လိုရာပုံစံကို ထုနှိပ်ခြင်းဖြင့် ပုံဖော်မှမ်းမံနိုင်စေကာမူ မူလဆောက်သား ထစ်ရာ ထစ်ချက် ပန်းပုလက်ရာ အစစ်သည်သာလျှင် တန်ဖိုး ရှိပေသည်။ ပန်းပုရုပ်လုံးများကို သဘာဝဆေးရောင် ခြယ် သုတ်ရာ၌လည်း မူလထုသားအတိုင်း လက်ရာကို တင်ပြ ထားသလောက် တန်ဖိုးမထားကြချေ။ ပန်းပုရုပ်လုံးကို သင့်တင့်ရုံ ချောမွတ်စေသည်မှ တပါး အရောင်အသွေး မွမ်းမံခြယ်လှယ်ခြင်း မပြုပဲ တင်ပြခြင်းဖြင့်သာ ပညာလက် ရာကို ဂုဏ်ယူလေသည်။

ရုပ်လုံးကိုထုလုပ်ရာ၌ လူဖြစ်စေ၊ တိရစ္ဆာန်ဖြစ်စေ ယင်း တို့သည် ငြိမ်သက်သေ့ခြောက် မနေစေပဲ အသက်ဝင် လှုပ် ရှားနေသကဲ့သို့ အားမာန်ပါအောင် ထုလုပ်နိုင်မှသာလျှင် ပညာသားပါသော လက်ရာဟု ဆိုရသည်။ အရွယ်ပမာဏ

အားဖြင့် ကြီးသည်ဖြစ်စေ၊ ငယ်သည်ဖြစ်စေ အချိုးအစား ကျနမှန်ကန်စေရန် အရေးကြီးပေသည်။ အချိုးအစား မှန်ကန်ပါလျှင် အရွယ်သေးငယ်သော်လည်း ကြည့်ရှုခံစားသူအဖို့ အရွယ်ပမာဏကို မေ့ပျောက်ကာ ပကတိ အလုံးအရပ် အချိုးအစားအတိုင်း ထင်မြင်လာနိုင်စေလေသည်။

ပန်းပုပညာရှင်သည် စိတ်ကူး ထက်မျက်ခြင်း၊ မျက်မြင်စေ့စပ်သေချာခြင်း၊ အမှန်းအဆ တိကျခြင်း၊ စိတ်ရှည်ခြင်း၊ လက်ဆမှန်ကန် ကျွမ်းကျင်ခြင်း၊ နည်းစံနစ် မှန်ကန်ခြင်းတို့ ပြည့်စုံလျှင် တိုးတက်ပြောင်မြောက်သော အနုပညာရှင်တဦးဖြစ်နိုင်ပေသည်။ ပန်းပုပညာသည် သတ္တဝါ အရာဝတ္ထုရှိသလောက် ပုံဖော်နိုင်စွမ်းရှိ၍ နယ်ကျယ်ဝန်းသော လက်မှုအနုပညာတရပ် ဖြစ်သော်လည်း ယခုကဲ့သို့ အနုမြူခေတ်၊ ဒုံးပျံခေတ်တွင် အနုပညာတရပ်အနေဖြင့် အားပေးထိန်းသိမ်းမှု မရှိပါက တစတစမှေးမှိန် ပျောက်ကွယ်သွားဖွယ်ရာ အကြောင်းရှိပေသည်။

**သစ်ပုပ်ပင်။** ။သစ်ပုပ်ပင်သည် မဒမ၊ ယင်းတိုက်၊ ယင်းစပ် စသည်တို့နှင့် မျိုးတူ၍ ပါပီလီယိုနေစီအီး မျိုးရင်း၌ ပါဝင်ပြီးလျှင် ယင်းကို ရုက္ခဗေဒ အမည်အားဖြင့် ဒါလဗားဂီးယား ကာဇိုင်းဟုခေါ်သည်။ မြန်မာနိုင်ငံ အထက်နှင့် အောက်ပိုင်း မိုးပါးဒေသ သစ်တော(တောခြောက်)များ၌ ပေါက်ရောက်သည်။ အပင် အလတ်စားမျိုးဖြစ်၍ အမြင့်ပေ ၅၀၊ လုံးပတ် လေးပေမှ ငါးပေခန့်အထိ ရှိသည်။

သစ်ပုပ်ပင်၏ ကိုင်းညွန့်များသည် အလုံးကြီး၍ ပြောင်ချောနေပြီးလျှင် အမွေးအမှင် မရှိချေ။ အရွက်များသည်လည်း ကြီးမား၍ အမွေးအမှင်မရှိပေ။ နွေရာသီ၌ အရွက်ကြွေ၍ ရွက်သစ်များမထွက်မီ အဖြူနှင့် ခိုရောင် ကတ္တီပါမွေးများရှိသော ပန်းပွင့်တို့သည် အကိုင်းဖျား၌ စုပြုံ၍ ပွင့်ကြသည်။ သုံးလက်မမှ ငါးလက်မအထိ ရှည်သော အသီးတောင့်များ သီးရာ ယင်းတို့၌ ကွန်ချာသဖွယ် ယှက်သန်းနေသော အကြောများ ပါရှိသည်။ အသီး တတောင့်လျှင် အစေ့တစေ့မှ နှစ်စေ့ခန့်သာ ပါရှိ၍ အစေ့ရှိသော နေရာသည် ခပ်ဖုဖုဖြစ်နေသည်။ ထိုသစ်ပင်မျိုး၏ သစ်သားသည် တန်ဖိုးမရှိလှချေ။

သစ်ပုပ် အမည်ဖြင့်လည်း ခေါ်ဝေါ်သော အခြား သစ်ပင်များ ရှိသေးသည်။ ဘိုင်ပင်ကိုလည်း သစ်ပုပ်ဟု ခေါ်ကြသည်။ (ဘိုင်ပင် — ရှု။)

အခြား သစ်ပုပ်ပင်တမျိုးမှာ အာလမေးစီအီး မျိုးရင်းဝင်ဖြစ်၍ ရုက္ခဗေဒ အမည်ဖြင့် ဆဲလတစ် တက်တြန်ဒြာဟု ခေါ်သည်။ အတော်အသင့်ကြီးသော သစ်ပင်မျိုးဖြစ်သည်။ မြန်မာနိုင်ငံ အထက်အောက် မြေညီ သစ်တောနှင့် တောင်နိမ့်ပိုင်း သစ်တောများ၌ ပေါက်ရောက်သည်။ ထိုသစ်ပုပ်ပင်မျိုး၏ သစ်သားသည် ဖြူမွဲမွဲ အရောင်မျိုး ဖြစ်ပြီးလျှင် အတော်အသင့် မာသည်။ ကုဗတပေလျှင် ၃၇ ပေါင် လေးသည်။ ထိုသစ်သားဖြင့် လှေ၊ ဘောက်တူများ စပ်ရန် ပျဉ်ခွဲရန် ကောင်းလေသည်။

**သစ်ယာပင်။** ။အပင်ကြီးမျိုး ဖြစ်သော သစ်ယာပင်သည် ဒစ်တရိုကာပေစီအီး မျိုးရင်းတွင် ပါဝင်၍ အင်၊ အင်ကြင်း၊ ကညင်၊ သင်္ကန်း၊ သင်္ကန်းဒူး၊ ကောင်းမှု၊ ကျည်းလံနှင့် လုမ္ဗဏီ(အိန္ဒိယ)အင်ကြင်းတို့နှင့် မျိုးရင်းတူပေသည်။ ရုက္ခဗေဒ အမည်အားဖြင့် ရှိုရီယာ အော့ဗလောင်းဂီဖိုလီယာ ဟူ၍၎င်း၊ ရှိုရီယာ အော့တျူစာဟူ၍၎င်း ခေါ်ဝေါ်သည်။ ဈေးကွက်အမည်မှာ သစ်ယာ-အင်ကြင်း ဟူ၍ဖြစ်ပြီးလျှင် အိန္ဒိယဈေးကွက်တွင်မူ မြန်မာ အင်ကြင်းဟုခေါ်ဆိုကြလေသည်။

သစ်ယာပင်တို့သည် ယင်းတို့ချည်း သက်သက် စဝေးပေါက်ရောက်လေ့ရှိရာ သစ်ယာတောများကို မြန်မာနိုင်ငံ၊ သီဟိုဠ်ကျွန်း၊ ကမ္ဘောဒီးယားနိုင်ငံတို့၏ စိုစွတ် ထိုင်းမှိုင်းသော တောင်ကုန်းနိမ့်နိမ့် ဒေသများ၌ တွေ့ရှိကြရလေသည်။ မြန်မာနိုင်ငံ ခြောက်သွေ့သော ဒေသပေါက် သစ်တောများတွင်မူ အင်ကြင်းပင်များနှင့် ရောနှော ပေါက်ရောက်သည်ကို တခါတရံ တွေ့ရသည်။ ထိုသစ်ယာတောများသည် မိုးကုတ် ကျောက်တွင်းဒေသနှင့် အထက်ချင်းတွင်း သစ်တောခရိုင် မော်ကူနှင့် အကျော်ကြီး သစ်တော ကြိုးဝိုင်း အထိ မြောက်ဖက် အကျဆုံး ပေါက်ရောက်သည်။ သစ်ယာပင်တို့ နှစ်ခြိုက်သော ရေမြေဒေသမျိုးတွင် သစ်ယာတောများကို အများအပြား တွေ့ရှိနိုင်လေသည်။

ရွက်ကြွေပင်မျိုး ဖြစ်သော သစ်ယာပင်သည် လုံးပတ် ခုနစ်ပေမှ ရှစ်ပေအထိ ကြီးမားနိုင်၍ ပေ ၁၀၀ ခန့်အထိ မြင့်မားနိုင်သည်။လုမ္ဗဏီ(အိန္ဒိယ)အင်ကြင်းနှင့် အပင်ချင်း ဆင်ဆင် တူသော်လည်း သစ်သားမှာမူ မြန်မာအင်ကြင်းသားနှင့် ပို၍ဆင်လေသည်။ အရွက်တို့သည် ရှည်ဝိုင်းဝိုင်း ဖြစ်ပြီးလျှင် အရွက်ရိုးတံသည် တို၍ လက်မဝက်ခန့်သာ အများဆုံး ရှိလေသည်။ထိုကြောင့် အရွက်တိုဝိုင်းဝိုင်း ဖြစ်ပြီးလျှင် အရွက်ရိုးတံရှည်၍ အရွက်ရင်းတွင် ချိုင့်ဝင်နေသော အင်ကြင်းရွက်နှင့် ခြားနား သိသာနိုင်ခြင်း ဖြစ်ပေသည်။ ထို့ပြင် သစ်ယာရွက်များသည် ရင့်၍ ကြွေလုနီးသည့်အခါ အဝါရောင်သို့ ပြောင်းသော်လည်း အင်ကြင်းရွက်သည် လိမ်မော်ရောင်၊ သို့မဟုတ် အနီရောင်သို့ ပြောင်းသဖြင့် အရောင်ချင်းကွဲပြားသည်။ နွေဦးပိုင်းတွင် အရွက်များ ကြွေလေရာ မတ်လတွင် သစ်ယာပင်များသည် ရိုးတံကျဲကျဲဖြင့် ရှိနေကြလေသည်။

မတ်လ အတွင်း၌ပင် အနံ့ဆင်း၍ အဝါရောင်ရှိသော

ပန်းများသည် အခိုင်လိုက် ပွင့်ကြပြီးနောက် မကြာမီ အသီးများ သီးသည်။ အသီးသည် အစေ့တစေ့တည်း ပါသော ခွံမာသီးမျိုး ဖြစ်၍ မေလခန့်တွင် အသီးများ မှည့်သည်။ အသီးများတွင် အတောင်ကဲ့သို့သော အင်္ဂါငါးခု ပါသည်။ အတောင်နှစ်ခုသည် တို၍ လက်မဝက်ခန့်သာရှိသည်။ ယင်းသို့ အတောင်များပါရှိသဖြင့် အသီးများ ရင့်ခြောက်၍ ကြွေသည့်အခါ လေဖြင့် လွင့်ပါပြီးလျှင် မျိုးဆက်ပြန့်ပွားလေသည်။

သစ်ယာစေ့များသည် အခြား ဒစ်တရိုကာပေစီအီးမျိုးရင်းဝင် အပင်မျိုးတို့၏ အစေ့များနည်းတူ မြေပေါ်သို့ ကျရောက်ပြီးနောက် မကြာမီပင် အစေ့မှ အညှောက်များ ထွက်လွယ်သည်။ ထိုအစေ့များကို ကြာရှည်စွာ သိုလှောင်ထားလျှင်မူ အညှောက်ပေါက် နှေးကွေး သွားလေသည်။ အပင်ပေါက်ကလေးများသည် တောမီးလောင်ခြင်း ခံရစေကာမူ အပင်သေမသွားချေ။ အမြစ်ပိုင်းမှ အပင်သစ်များ ပြန်၍ ထွက်ကာ ရှင်သန်ကြီးထွားလာနိုင်သည်။ အပင်များ၏ ငုတ်တက်များမှလည်း အပင်ပေါက်များ ကောင်းစွာ ထွက်နိုင်လေသည်။

သစ်ယာခေါက်သည် ထူထဲ၍ မီးဒဏ်ကို ခံနိုင်ရည်ရှိသည်။ အခေါက်၏ အပြင်ရောင်သည် မီးခိုးရောင်ရင့်ဖြစ်၍ အတွင်းရောင်သည် အညိုရောင်ဖြစ်သည်။ အခေါက်တွင် ထောင်လိုက် အက်ကွဲကြောင်းများရှိသည်။

သစ်ယာသားသည် အင်ကြင်းသားနှင့် တူကြောင်း အထက်တွင် ဆိုခဲ့သည်။ သို့ရာတွင် အင်ကြင်းသားထက် ပိုလေး၍ ကုဗတပေလျှင် ၆၄ ပေါင် အချိန်စီးလေသည်။ အကာသားသည် မှိုစွဲသော်လည်း လွယ်ကူစွာ မဆွေးမြည့်နိုင်ပေ။ အနှစ်သားသည် ခုတ်ဖြတ်စတွင် အရောင်ဖျော့သော်လည်း အချိန်ကြာလျှင် အရောင်ရင့်လာသည်။ လုမ္ဗဏီ (အိန္ဒိယ) အင်ကြင်းထက် အသားညက်သည်။ သို့သော် အမျှင်လိမ်များရှိသဖြင့် အလွန်ထက်သော ရွေပေါ်ကို သုံးမှသာလျှင် မျက်နှာပြင် ညီညီညာညာ ရနိုင်လေသည်။

အလွန်မာကြော၍ ကြာရှည်ခံပြီးလျှင် ခြမကိုက်နိုင်သော သစ်ယာသားကို မီးရထား ဇလီဖားတုံးများ၊ တန်တားများ ပြုလုပ်ရန် အသုံးပြုကြသည်။ ထိုပြင် အဆောက်အအုံများ၊လှေများ၊လှည်းများ၊ပရိဘောဂပစ္စည်း အကြမ်းစားများ၊ ကရိယာ လက်ကိုင်များ လုပ်ကိုင်ရန်လည်း သစ်ယာသားကို အသုံးချနိုင်သည်။သစ်ယာသားကို အခြောက်ခံ၍ အသားသေအောင် ပြုသည့်အခါ သစ်လုံး၏ မျက်နှာပြင်တွင် အက်ကွဲကြောင်းများ ပေါ်တတ်သည်။ သို့သော် ထိုသစ်ကို အကြမ်းသုံး အဖြစ်သာ အသုံးများကြသဖြင့် မျက်နှာပြင် အပေါ်ယံ အက်ကြောင်းများသည် အရေးမဟုတ်ပေ။

သစ်ယာပင်မှ ပွဲလျက်ကဲ့သို့ အရည်ကြည်ကြည် အစေးတမျိုး ရနိုင်သည်ဟု ဆိုကြသည်။

# တိုင်းပြည်ဘဏ္ဍာ သစ်ရတနာ

**သစ်ထုတ်လုပ်ငန်း၏ သည်းထိပ်ရင်ဖိုဖွယ်ရာများ၊ ကမ္ဘာ၌ သစ်ထွက်ကောင်းသော နိုင်ငံကြီးများ၊ မြန်မာနိုင်ငံထွက် သစ်အမျိုးမျိုး၊ မြန်မာနိုင်ငံ၏ ဒုတိယဝင်ငွေအကောင်းဆုံးလုပ်ငန်း၊ ကမ္ဘာ့ဈေးကွက်၌ မျက်နှာပန်းလှနေသော မြန်မာ့ကျွန်းသစ်။**

**သစ်လုပ်ငန်း။** ။သစ်တောတွင်းမှ သစ်ပင်ကို ခုတ်လှဲသစ်ထုတ်ခြင်း၊ ထိုနောက် သစ်စက်တွင် သစ်ခွဲခြင်း၊အသုံးချမည့်လူတို့လက်သို့ ရောက်အောင် အဆင့်ဆင့် ဖြန့်ဖြူး ရောင်းချခြင်းတို့ကို သစ်လုပ်ငန်းဟု ခေါ်သည်။ ကမ္ဘာ့အရပ်ရပ်တွင် သစ်တောများကို အသုံးချ၍ရသည့်ဒေသ မှန်သမျှ၌ သစ်လုပ်ငန်း ရှိသည်။ သစ်လုပ်ငန်းသည် ရှေးအစဉ်အဆက်ကပင် လုပ်ကိုင်လာခဲ့ကြသော လုပ်ငန်းကြီးတရပ်ဖြစ်ပေသည်။ လူတို့၏ နေအိမ်အဆောက်အအုံများ၊ သယ်ယူ ပို့ဆောင်ရေးယာဉ် အမျိုးမျိုး စသည်တို့သည် သစ်နှင့် မကင်းကြသဖြင့် သစ်လုပ်ငန်းသည် ခေတ် အမျိုးမျိုးနှင့် စံနစ်အမျိုးမျိုး ပြောင်းခဲ့သော်လည်း ကမ္ဘာ၌ အခွန့်ကြာရှည်စွာ တည်တံ့နေမည့် လုပ်ငန်းပေတည်း။

ကမ္ဘာပေါ်တွင် သစ်တော ဧရိယာ ၆၀ ရာခိုင်နှုန်းခန့်သည် အာဖရိကတိုက်၊ အာရှတိုက်၊ လက်တင် အမေရိကတိုက် (တောင်အမေရိကတိုက်) နှင့် ပစိဖိတ် ဒေသတို့၌ တွေ့ရှိရသည်။ သို့သော် ထိုဒေသများမှ စုစုပေါင်း သစ်အထွက်နှုန်းသည် ကမ္ဘာ့ သစ်အထွက်၏ ၃၀ ရာခိုင်နှုန်းခန့်သာ ရှိသည်။ ကမ္ဘာ့ မြောက်ဖက်လုံးခြမ်း သမပိုင်း နိုင်ငံများသည် ၇၀ ရာခိုင်နှုန်းခန့်ကို ထုတ်လုပ် နိုင်ကြရာ သစ်ထုတ်ရေး၊ သစ်ခွဲရေး၊ သယ်ယူ ပို့ဆောင်ရေးတို့၌ အလွန် တိုးတက်သော စက်မှု ပစ္စည်းများကို ထိုနိုင်ငံများက တွင်တွင် ကျယ်ကျယ် အသုံးပြုကြခြင်းကြောင့် ဖြစ်လေသည်။

တောင် အမေရိကတိုက်၊ အာဖရိကတိုက်တို့၌ လမ်းပန်းဆက်သွယ်ရေး အခက်အခဲတို့ကြောင့် သစ်ထုတ်ခြင်း မပြုနိုင်သော သစ်တောကြီးများ အများ အပြား ရှိသည်။ သစ် အထွက်ကောင်း၍ သစ်လုပ်ငန်းကြီးကျယ်သော ကမ္ဘာ့နိုင်ငံကြီးများမှာ အမေရိကန် ပြည်ထောင်စုနိုင်ငံ၊ ဆိုဗီယက်ရုရှ နိုင်ငံ၊ ကနေဒါနိုင်ငံနှင့် ဥရောပ နိုင်ငံများ ဖြစ်ကြသော

ဖင်းလန်၊ ဆွီဒင်၊ ပြင်သစ်၊ ပိုလန်နှင့် ဂျာမနီနိုင်ငံတို့ ဖြစ်ကြသည်။ အာရှ နိုင်ငံများ အနက် တရုပ်နိုင်ငံ၊ ဂျပန်နိုင်ငံ၊ မလေးရှား ပြည်ထောင်စု နိုင်ငံ၊ အင်ဒိုနီးရှား နိုင်ငံ၊ ဖိလစ်ပိုင် နိုင်ငံတို့သည်လည်း သစ်အထွက် ကောင်းသည်။ ပြည်ထောင်စု မြန်မာနိုင်ငံသည် ကျွန်းနှင့် အခြားအဖိုးတန် သစ်မာ အများအပြား ထွက်ရှိသဖြင့် ကျော်ကြားလေသည်။

အထက်တွင် ဆိုခဲ့သော သစ်လုပ်ငန်း၏ အဆင့် သုံးဆင့် အနက် သစ်ထုတ်ရသည့် အဆင့်သည် အတော် ခက်ခဲသော အလုပ် ဖြစ်သည်။ သစ်ပင် ခုတ်လှဲခြင်းကို သစ်ခုတ်သမားတို့က ဆောင်ရွက်ရသည်မှာ လူတိုင်း အသိပင် ဖြစ်သည်။ သို့သော် သစ်တောအတွင်း၌ ကြံ့ခိုင်မြင့်မားသော သစ်ပင်ကြီးများကို ခုတ်လှဲရခြင်းသည် သက်သာလွယ်ကူသော အလုပ် မဟုတ်ချေ။ သစ်ခုတ်သမားများသည် ကြမ်းတမ်း ကြံ့ခိုင်၍ ဇွဲသတ္တိ ရှိသူများ ဖြစ်ကြရသည်။

အေးမြသော သမပိုင်းဒေသ နိုင်ငံများတွင် သစ်ခုတ်ရသည့် အချိန်ကာလသည် ရာသီဥတု ဆိုးရွားသော ဆောင်းအခါ ဖြစ်သည်။ ထိုနိုင်ငံများ၌ ဆောင်းရာသီတွင် သစ်ခုတ်လုပ်ငန်းကို ဆောင်ရွက်ရသည့် အကြောင်းမှာ ဆောင်းရာသီ၌ မြေပြင်ကို ဆီးနှင်းများ ဖုံးလွှမ်းနေသဖြင့် ခုတ်လှဲပြီးသော သစ်များကို တောတွင်းမှ ထုတ်ယူရန် လွယ်ကူသည်။ သစ်လုံးများကို ချောင်းဘေးတွင် စုဆောင်းထား၍ နွေဦး၌ ဆီးနှင်းများ အရည်ပျော်ပြီးလျှင် မြစ်ချောင်းများ အတွင်းသို့ စီးဆင်းသောအခါ သစ်လုံးများကို ထိုမြစ်ချောင်းများထဲသို့ တွန်းချ၍ မျောပါစေခြင်းဖြင့် သစ်စက်များသို့ သယ်ယူပို့ဆောင်ရေး လွယ်ကူသည်။ရေခဲအောင် အေးမြလှသည့် ဆောင်းကာလတွင် တောကြီးမျက်မည်းများထဲ၌ သစ်ခုတ်ရသည့် အလုပ်သည် မည်မျှ ပင်ပန်း ခက်ခဲမည်ကို တွေးဆကြည့်က သိနိုင်ကြပေမည်။

သစ်ခုတ်ရမည့် သစ်တောအတွင်း၌ တဲစခန်းများဆောက်လုပ်၍ သစ်ခုတ်သမားများသည် နွေစဉ် မိမိတို့ ဆိုင်ရာ အဆိုင်းနှင့် သစ်ခုတ်ထွက်ကြရသည်။ စက်မှု မထွန်းကားမီ ခေတ်က ကြီးမားသော လွှကြီးများကို အသုံးပြုကြရာ ထိုလွှကြီးများကို နှစ်ယောက် ဆွဲရသည်။ ခုတ်ကွက်တခု၏ သင့်လျော်ရာ တနေရာတွင် ခုတ်ပြီးသား သစ်များကို ရွှေ့ပြောင်း သယ်ထုတ်ရေးအတွက် စက်ကြိုးယန္တရား တပ်ဆင်ရန် ကြီးမားကြံ့ခိုင်၍ မြင့်မားသော သစ်ပင်ကြီးတပင်ကို မဏ္ဍိုင်ပင် အဖြစ် ရွေးချယ်ရသည်။ မဏ္ဍိုင်ပင် အဖြစ်ထားမည့် သစ်ပင်ကြီးကို သစ်ခုတ်သမား တယောက်တည်းက သစ်ပင်အပေါ်ပိုင်းသို့ တက်ကာ ထိပ်ဖျားကို ပိုင်းချရသည်။ ယင်းသို့ ထိပ်ဖျားကို ပိုင်းရသည့် အလုပ်သည် အလွန် အသက်ဘေးအန္တရာယ် နီးလှပေသည်။ ထိပ်ဖျားကို ပိုင်းချပြီးနောက် ဆွဲအား ခံနိုင်ရန် မဏ္ဍိုင်ပင်ကြီးတွင် ထိန်းကြိုးဆိုင်းကြိုးများဖြင့် ဆိုင်းထားပြီးလျှင် စက်သီးများနှင့် အခြား စက်ကြိုးယန္တရားများတပ်ဆင်ကာ ထိုစက်ကြိုးယန္တရားများဖြင့် ခုတ်လှဲပြီးသော သစ်လုံးများကို ထုတ်ယူ၍ လွယ်ကူစေရန် ရွှေ့ပြောင်းပေးခြင်း၊ ဆွဲတင်ပေးခြင်းတို့ကို ပြုလုပ်ရသည်။

အခြား သစ်ပင်များကို ခုတ်လှဲရာ၌မူ အပင်ကို လှဲချပြီးနောက် အကိုင်း အလက်များကို ပုဆိန်ဖြင့် ခုတ်ထွင် ရှင်းလင်းရသည်။ ထိုနောက်တွင် သင့်လျော်မည့် အနေ သစ်လုံးများ ရရှိအောင် ပင်လုံးကို ပိုင်းဖြတ်ကြရပြန်သည်။ ယင်းသည့် နောက်မှ သစ်လုံးများကို သစ်စက်များ ရှိရာသို့ သယ်ယူ ပို့ဆောင်ရေးစံနစ် အမျိုးမျိုးဖြင့် ပို့ဆောင်ကြလေသည်။စက်မှုထွန်းကားလာသော ခေတ်တွင် သစ်ပင်များကို ခုတ်လှဲရာ၌ လွှစက်များကို အသုံး ပြုလာကြသည်။ အမေရိကန် ပြည်ထောင်စု၌ အထူးသဖြင့် ၁၉၄၀ ပြည့်နှစ် နောက်ပိုင်းမှ စပြီးလျှင် မော်တာစက်ဖြင့် မောင်း၍ ဘိုင်စကယ် ချိန်းကြိုးနှင့် တူသော သံကြိုးကွင်းဆက်တွင် လွှသွားများ တပ်ထားသည့် ချိန်းလွှများကို အသုံးပြုကာ သစ်ပင်များကို ခုတ်လှဲ ပိုင်းဖြတ်ကြလေသည်။

သစ်လုံးများကို ပိုင်းဖြတ်ထားသော နေရာများမှ အနီးဆုံး မီးရထားလမ်း၊ မော်တော်ကားလမ်း၊ မြစ်ဆိပ် စသော စခန်းတို့သို့ ရောက်အောင် တခါတရံ လူအင်အားဖြင့်၎င်း၊ တခါတရံ မြင်း၊ လား စသော ဝန်ဆွဲတိရစ္ဆာန်များကို အသုံးပြု၍၎င်း ဆွဲထုတ်ကြရသည်။ တောင်ကုန်း ထူထပ်သော ဒေသများတွင် တောင်စောင်း ဆင်ခြေလျှောများမှ လျှောချခြင်းလည်း ပြုကြသည်။ မီးရထားလမ်း၊ မော်တော်ကားလမ်း၊မြစ်ဆိပ်စခန်းတို့ကို ရောက်သည့်အခါမှ မီးရထား၊ မော်တော်ထရပ်ကား၊ ဆွဲသင်္ဘောများဖြင့် သက်ဆိုင်ရာ သစ်စက်ကြီးများသို့ သယ်ယူပို့ဆောင်ရလေသည်။

အသုံးများသော သယ်ယူပို့ဆောင်ရေး စံနစ်မှာ မြစ်ချောင်းများဖြင့် သစ်လုံးများ မျှောချခြင်း ဖြစ်သည်။ သစ်မျှောချရာ၌လည်း သစ် အလုပ်သမားများ၏ အံ့ဖွယ်ရာ အရည်အခြင်းကို တွေ့ကြရသည်။သစ်လုံးများကို ဖောင်ဖွဲ့၍ မျှောချစဉ် လိုက်ပါလာသော သစ်အလုပ်သမား တယောက်အတွက် ရေစီး အရှိန်ပြင်းပြင်းတွင် မျောပါလာသော သစ်လုံးများကို ထိန်းသိမ်းလိုက်ပါလာရခြင်းသည် အန္တရာယ် မသေးလှချေ။ သံချွန်တပ်ထားသော ဖိနပ်များကို စီးကာ သစ်တုံးတခုမှတခုသို့ခုန်ကူးပြီးလျှင်သစ်လုံးများနေရာတကျ မျောပါနိုင်စေရန် ပြုပြင်ပေးရသည့် အလုပ်သည် မလွယ်ကူပေ။ တခါတရံ ဖောင်ဖွဲ့ထားသော သစ်လုံးများသည် အတားအဆီး တခုခုနှင့် တွေ့သဖြင့် ကစဉ့်ကရဲ ဖြစ်သွားခြင်း၊ သစ်လုံးများ စုပြုံမောက်တက်ပြီးလျှင် ထိုးထိုးထောင်ထောင် ဖြစ်ခြင်းများလည်း ဖြစ်တတ်သေးသည်။ယင်းသည့်

အခါ သစ်လုံးများကို နေရာတကျ ဖြစ်အောင် ပြန်၍ စီစဉ်ရသည့် အလုပ်သည်လည်း သည်းထိတ်ရင်ဖိုဖွယ် ကောင်းလှသည်။ ထိုအခါမျိုးတွင် အချက်အခြာ သော့ချက်ဖြစ်သော သစ်လုံးကို ရှာပြီးလျှင် ပြန်၍ နေထားတကျ ဖြစ်အောင် ပြုလုပ်ရသည်။ တခါတရံ ဒိုင်းနမိုက်များကို အသုံးပြုကာ လုံးထွေးနေသော သစ်လုံးများကို ရှင်းထုတ်ရလေသည်။

ထိုနိုင်ငံကြီးများတွင် မြစ်ချောင်းများဖြင့် မျှောချသည့် သစ်လုံးများကို လက်ခံသော သစ်စက်များသည် များသောအားဖြင့် သဘာဝရေအိုင်၊ သို့မဟုတ် လူတို့စီမံလုပ်ကိုင်ထားသော ရေအိုင်တို့၏ ကမ်းပါးယံတွင် တည်ရှိကြသည်။ ထိုသစ်စက်ကြီးများရှိ သစ်လှောင်ကန်များထွင်သစ်လုံးများကို ထည့်သွင်း ချည်နှောင်ထားကြသည်။ တခါတရံ သစ်စက်ကြီးများသည် ကြီးမားကျယ်ပြန့်သော ရေအိုင်ကြီးများ၏ ကမ်းပါး၌ တည်ရှိကြပေရာ၊ မြစ်ချောင်းများဖြင့် မျှောပါလာသော သစ်လုံးများကို ရေအိုင်ကြီးများသို့ ရောက်လျှင် ဆွဲသင်္ဘောများဖြင့် တဆင့် ဆွဲယူ၍ သစ်စက်များသို့ ပို့ကြရသည်။ ယခုခေတ်တွင်မူ မြစ်ချောင်းများအားဖြင့် သစ်မျှောခြင်းသည် မြစ်ချောင်းကမ်းပါးများကို ပြိုစေသည်ဟု ယူဆသောကြောင့် ထိုနည်းကို အသုံးနည်းပါးလာသည်။ စက်ကရိယာ အသုံးများသော ခေတ်သို့ ရောက်ရှိလာသဖြင့်လည်း သစ်လုံးများကို မီးရထား၊ မော်တော်ကားများဖြင့် သယ်ယူပို့ဆောင်မှုကို ပို၍ အသုံးများလာလေသည်။

စက်မှုခေတ်သို့ ရောက်ရှိလာသဖြင့် သစ်တောအတွင်း၌ သစ်ခုတ်လှဲခြင်း၊ တောတွင်းမှ သစ်လုံးများ ထုတ်ယူခြင်း၌လည်း စက်ကရိယာများကို အသုံးပြုလာကြသည်။ အမေရိကန် ပြည်ထောင်စု၊ နယူးအင်္ဂလန်ပြည်နယ်နှင့် ရေအိုင်ကြီးများဒေသတွင် တောတွင်းမှသစ်လုံးများကိုထရက်တာများ၊ ဗူလဒိုဇာများဖြင့်ဆွဲ၍ မီးရထားလမ်း၊ မော်တော်ကားလမ်းရှိ စခန်းများသို့ ပို့ဆောင်ကြသည်။ ထိုကြောင့် သစ်တောတွင်းမှ သစ်လုံးများ ထုတ်ယူရေးသည် ယခင်ကလောက် ခဲယဉ်းပင်ပန်းခြင်း မရှိတော့ချေ။ ထရက်တာများသည် နေရာကျဉ်းကျဉ်း၌ပင် လှည့်ပတ် သွားလာနိုင်၍ သစ်ခုတ်စခန်းသို့ အရောက်သွားပြီးလျှင် သစ်လုံးများကို ဆွဲယူလာနိုင်သည်။ ဗူလဒိုဇာများသည်လည်း သစ်တောများအတွင်း လမ်းရှင်းခြင်းမညီညာသော မြေပြင်များကို ညှိခြင်းများကို ပြုလုပ်ကာ သစ်လုံးများကိုပါ ဆွဲထုတ်လာနိုင်သည်။ ထရက်တာများ၊ ဗူလဒိုဇာများကို အသုံးပြုလာသဖြင့် သစ်တောများအတွင်းမှ သစ်လုံးများကို တောတွင်း၌ အချိန်ကြာမြင့်စွာ မထားပဲ ထုတ်ယူနိုင်သောကြောင့် သစ်လုံးများဆွေးမြေ့ခြင်း၊ ပိုးကိုက်ခြင်းတို့ လျော့နည်းသွားလေသည်။

သစ်စက်များတွင် သစ်လုံးများကို ခွဲခြမ်းစိတ်ဖြာရသည်။ သစ်ခွဲရာ၌ 'ဂိုဏ်းလွှ' ဟုခေါ်သော လွှသွား အများအပြားပါဝင်သည့် လွှစက်ကို အသုံးများကြသည်။ ထိုလွှစက်ဖြင့် သစ်လုံးကို စိတ်ဖြာလိုက်ရာ တချိန်တည်းတွင် သစ်လုံးတလုံးတည်းမှ သစ်ခွဲသား အများအပြား ထွက်ရှိနိုင်သည်။ သစ်လုံးကို သစ်ခွဲသားများအဖြစ် လွှချရာ၌ အလဟဿ ဖြစ်သွားသော အစိတ်အပိုင်း ဟူ၍ မရှိပေ။ ခွဲခြမ်း ညှပ်ညှပ်များကို တန်းပျဉ်များအဖြစ် သုံးနိုင်သည်။ အခေါက်၊ လွှစာနှင့် အခြား အစအနများကို ထင်းဆိုက်ကြရသည်။ သစ်တိုသစ်စများကို လေလုံသော ပေါင်းအိုးများတွင် အပူဓာတ်ပေးပြီး ပေါင်းခံခြင်းအားဖြင့် မက်သဲ အယ်လကိုဟော၊ အက်သဲ အယ်လကိုဟော၊ ကတ္တရာတမျိုးနှင့် မီးသွေးကိုလည်း ရရှိနိုင်လေသည်။

သစ်စက်မှ ခွဲခြမ်းပြီးစ သစ်များကို အသုံးမပြုသင့်သေးပေ။ ထိုသစ်များသည် အသား မသေသေးသဖြင့် ရာသီဥတု စိုထိုင်းခြင်း၊ ခြောက်သွေ့ခြင်းကို လိုက်၍ အသားကျုံ့ခြင်း ပွခြင်း ဖြစ်တတ်သည်။ ထိုကြောင့် အသားသေအောင် ပြုပြီးသော သစ်များကိုသာလျှင် အသုံးပြုသင့်သည်။ သစ်စက်ကြီးများတွင် သစ်များကို အသားသေအောင် ပြုလုပ်သည့် 'သစ်ပေါင်းဖို'များ ရှိသည်။ ထိုပေါင်းဖိုများအတွင်းသို့ သစ်ခွဲသားများ သွင်းပြီးလျှင် သစ်များ၏ အမျိုးအစား အခြေ အနေကို လိုက်၍ ရက် အနည်းအများ ထားကာ ရေနွေးငွေ့နှင့် လေပူတို့ကို ပေးသွင်း၍ သစ်များခြောက်သွေ့အောင် ပြုပေးသည်။ ပေါင်းဖိုများ မရှိသည့် သစ်စက်များတွင်မူ သစ်ခွဲသားများကို တခုအပေါ် တခု ဆင့်၍ ကန့်လန့်ဖြတ် တင်ကာ လေသလပ်စေခြင်းဖြင့် သစ်များခြောက်သွေ့၍ အသားသေအောင်ပြုကြသည်။ ထိုနည်းသည် ပေါင်းတင်နည်းကဲ့သို့ အခြောက် မမြန်ပေ။

အချို့ သစ်စက်ကြီးများတွင် ရွှေပေါ်ထိုးစက်များလည်း ပါရှိ၍ အချို့တွင် မပါသဖြင့် ရွှေပေါ်ထိုးခြင်းကို သီးသန့်ပြုရသည်။ အမေရိကန် ပြည်ထောင်စုမှ သစ်စက်ကြီးများရှိ ရွှေပေါ်ထိုးစက်များသည် တမိနစ်လျှင် အလျား ပေ ၄၀၀ ပြီးစီးအောင် ရွှေပေါ်ထိုးနိုင်သည်။ ကြမ်းခင်းရန်၊ သို့မဟုတ် နံရံကာရန် အတွက် လျှာထိုးပျဉ်များကို လျှာထိုးဆက်၍ ကောင်းစေရန် ပျဉ်ချပ်၏ နံဘေးစောင်း တဖက်တွင် လျှာဖော်ပေးပြီးလျှင် တဖက်တွင် မြောင်းဖော် ပေးရလေသည်။

အချို့သော ကမ္ဘာ့ နိုင်ငံကြီးများတွင် သစ်အရောင်းအဝယ် ပြုကြရာ၌ ပြက် တပေ၊ အထူ တလက်မ ရှိသည့် ပျဉ်ချပ်များ၏ အလျားပေကိုလိုက်၍ တွက်ချက်ရောင်းဝယ်ကြသည်။ အမေရိကန် ပြည်ထောင်စုတွင် သစ်ဈေးကို ထိုတပေပျဉ်၏ အလျားပေ တထောင်ဈေးကိုဆို၍အရောင်းအဝယ် ပြုကြသည်။ မြန်မာနိုင်ငံတွင်မူ သစ်အလေးချိန် တတန်ဈေးနှုန်းကို ဆို၍ အရောင်းအဝယ် ပြုကြသည်။ သစ်တတန်လျှင် ကုဗပေ ၅၀ ရှိလေသည်။

သစ်များကို အမျိုးမျိုး အသုံးချကြရာ၌ သမပိုင်းဒေသနိုင်ငံများတွင် ထင်းရှူးတို့မှ ထုတ်လုပ်သော သစ်ပျော့မျိုးတို့ကို အသုံးများကြသည်။ အပူပိုင်းဇုန် ဒေသများ၌မူ ရွက်ပြန့်မျိုးတို့မှ ထုတ်လုပ်သော သစ်မာမျိုးတို့ကို အသုံးများလေသည်။

၁၉၆၃ ခုနှစ် အတွင်း တကမ္ဘာလုံး၏ သစ်လုံး အထွက်စုစုပေါင်းသည် ၄၆၃,၀၀၀,၀၀၀ တန်ဖြစ်သည်။ကမ္ဘာပေါ်၌ သစ်အများဆုံး ထုတ်လုပ်နိုင်သော နိုင်ငံသည် အမေရိကန်ပြည်ထောင်စု ဖြစ်သည်။ သို့သော် အထွက်ကောင်းသလောက် အသုံးလည်းများသည်။ ၁၉၆၃ ခုနှစ်အတွင်းက သစ်လုံး ၂၁၀,၀၀၀,၀၀၀ တန် ထုတ်လုပ်ခဲ့သည်။ သစ်မာအများဆုံး ထုတ်လုပ်နိုင်သောနိုင်ငံ ဖြစ်သော်လည်း အပူပိုင်းဒေသမှ သစ်မာမျိုးတို့ကို တင်သွင်းရသေးသည်။

ကနေဒါနိုင်ငံ၏ မြေဧရိယာ ၅၇ ရာခိုင်နှုန်းသည် သစ်တောများဖြစ်၍ သစ်လုပ်ငန်းသည် နိုင်ငံ၏ အဓိကလုပ်ငန်းကြီးတရပ်ဖြစ်သည်။ သစ်လုပ်ငန်းတွင် စက်မှု အသုံးများ၍ သစ်ထုတ်ရေး၌ ထရပ်ကားများကို အသုံးပြုသဖြင့် သစ်ခုတ်ခြင်းကို တနှစ်ပတ်လုံးဆောင်ရွက်နိုင်သော နေရာဒေသများစွာ ရှိသည်။ ခေတ်မီ စက်ပစ္စည်းများကို အသုံးပြုသဖြင့်လည်း ကနေဒါနိုင်ငံသည် သစ်များကို တိုးတက်ထုတ်လုပ်နိုင်လျက်ရှိရာ ၁၉၆၂ ခုနှစ် အတွင်း ကနေဒါနိုင်ငံ၏ သစ်အထွက်မှာ သစ်လုံး ၆၇,၇၀၀,၀၀၀ တန်ဖြစ်သည်။

ကမ္ဘာ၌ ဒုတိယအထွက်ကောင်းသောဆိုဗီယက်ရုရှတွင် ၂၀ ရာစုနှစ် အစပိုင်းအထိ သစ်ထုတ်လုပ်ရေးသည် ခေတ်မမီသေးပေ။ ဒုတိယ ကမ္ဘာစစ် အပြီးတွင် သစ်လုပ်ငန်း၌ စက်မှုပစ္စည်းများကို တွင်တွင်ကျယ်ကျယ် အသုံးပြုလာရာ သစ်ခုတ်ရေး၌ စက်ကရိယာများ ၉၁ ရာခိုင်နှုန်း၊ သစ်ထုတ်သစ်ဆွဲရေး၌ ၆၀ ရာခိုင်နှုန်း၊ သယ်ယူပို့ဆောင်ရေးတွင် ၈၈ ရာခိုင်နှုန်း အသီးအသီး အသုံးပြုလေသည်။ ၁၉၆၃ ခုနှစ်၌ သစ်လုံး ၂၅၄,၀၀၀,၀၀၀ တန်ကို ထုတ်လုပ်ခဲ့လေသည်။

ဆွီဒင်၊ ဖင်းလန်နှင့်ဂျာမနီနိုင်ငံတို့သည် သစ်လုပ်ငန်းတွင် ဥရောပမြောက်ပိုင်း နိုင်ငံများ၌ စံနမူနာထားရသော နိုင်ငံများဖြစ်သည်။ စက်ကရိယာပစ္စည်းများကို အသုံးပြုသော်လည်း မြစ်ချောင်းများအားဖြင့် သစ်မျှောခြင်းကို ပြုလုပ်ကြသေးသည်။

တောင်အမေရိကတိုက်၏ အပူပိုင်း သစ်တော အများအပြားတို့သည်၎င်း၊ သမပိုင်းသစ်တောများသည်၎င်း လူသူမနီးသော ဒေသ၊ လမ်းပန်း ဆက်သွယ်ရေး ခက်ခဲသော ဒေသများ၌ရှိကြသဖြင့်သစ်ထုတ်ယူရေးကိုမဆောင်ရွက်နိုင်သေးသလောက်ပင် ဖြစ်နေသည်။ ဗရာဇီး၊ ဗိုလစ်ဗီယား၊ ပီရူး၊ကိုလံဘီးယား၊အက်ကွာဒေါစသောနိုင်ငံများ၌လည်း လုပ်ကိုင်ဆောင်ရွက်လျက်ရှိသော သစ်ထုတ်လုပ်ရေး စံနစ်များသည် များစွာ ခေတ်နောက်ကျလျက် ရှိသေးသည်။ လူအင်အားကိုသာ အဓိကထားနေရသဖြင့်ကြီးကြီးမားမားသစ်လုံးကြီးများကိုလည်း မထုတ်လုပ်နိုင်ပဲ ခြေနိုင်လက်နိုင်အရွယ်အစားရှိသော မဟောဂနီနှင့် စပိန်ဆီဒါသစ်မျိုးကိုသာ ထုတ်လုပ်နိုင်လေသည်။

အာဖရိကတိုက်တွင် သစ်ထုတ်ရန် လွယ်ကူသော သစ်တောများမှသာ သစ်ထုတ်ရေးကို ဆောင်ရွက်လျက် ရှိ၍ ဒုတိယ ကမ္ဘာစစ်ခေတ်အထိ သစ်လုပ်ငန်း အခြေ အနေသည် များစွာ ခေတ်နောက်ကျခဲ့သည်။ စစ်ပြီးခေတ်တွင်မူ ဇိုင်ယာနိုင်ငံ (ယခင် ဗဲလဂျီယန် ကွန်ဂို) နှင့် အာဖရိကတိုက်တောင်ပိုင်းတွင် သစ်လုပ်ငန်း၌ ထရက်တာ၊ ဝန်တင်စက်၊ ဝန်ချီစက်၊ ထရပ်ကားစသော ခေတ်မီ စက်ပစ္စည်းများကို အသုံးပြုလာခဲ့သည်။

အာရှတိုက် တောစိုများ၌ သစ်ခုတ်လုပ်ငန်းတွင် လူအင်အားကို အဓိကအသုံးပြု၍ သစ်ထုတ် သစ်ဆွဲရန် တိရစ္ဆာန်အင်အားကို အသုံးပြုသည်။ အိန္ဒိယတွင် ကျွဲနွားများကို အသုံးများ၍ ခရီးလမ်းပန်း ကြမ်းတမ်းသောဒေသများတွင် ဆင်များကို အသုံးပြုသည်။ဗင်္ဂလားဒေ့ရှ်နိုင်ငံ (ယခင်အရှေ့ပါကစ္စတန်) တွင် ပင့်ဂလိက သစ်ခုတ်ကွက်များ၌ ဆင်ကို အသုံးပြု၍ အစိုးရပိုင်သစ်တောများ၌မူ ထရက်တာများကို အသုံးများသည်။ အနောက်ပါကစ္စတန်၌မူ သစ်လုံးသေးများသာ ထွက်သဖြင့် သစ်ခုတ်သစ်ထုတ်လုပ်ငန်းများ၌ လူအင်အားကိုသာ အသုံးပြုသည်။

အာရှနိုင်ငံများအနက် ဂျပန်နှင့် ဖိလစ်ပိုင်နိုင်ငံတို့သည် သစ်လုပ်ငန်း၌ စက်မှုပစ္စည်း အသုံးများသည်။ ဖိလစ်ပိုင်နိုင်ငံသည် ဒုတိယကမ္ဘာစစ်အပြီးတွင် အမေရိကန်စစ်တပ်၏ စစ်ကျန် စက်မှုပစ္စည်းအများအပြားကို ရလိုက်သည်မှစ၍ သစ်ခုတ်၊ သစ်ထုတ် လုပ်ငန်းတွင် ထရက်တာများကို အသုံးပြုခဲ့သည်။ဂျပန်နိုင်ငံသည် ၁၉၅၀ပြည့်နှစ်နောက်ပိုင်းအထိ သစ်ခုတ်၊ သစ်ထုတ် လုပ်ငန်းများတွင် လူအင်အားကိုသာ အသုံးပြုခဲ့သေးသည်။ ထိုနိုင်ငံသည် သစ်ထွက်ကောင်းသော နိုင်ငံတနိုင်ငံဖြစ်ရာ ၁၉၆၂ ခုနှစ်တွင် သစ်လုံး ၄၂,၅၀၀,၀၀၀ တန် ထုတ်လုပ်နိုင်ခဲ့သည်။

ပစိဖိတ်ဒေသတွင် ဩစတြေးလီးယားနိုင်ငံ၊ နယူးဇီလန်နိုင်ငံနှင့် ဖီးဂျီး ကျွန်းတို့မှလွဲ၍ အခြား ဒေသများတွင် များသောအားဖြင့် သစ်ခုတ်၊သစ်ထုတ်ရေးတို့ကို သမားရိုးကျစံနစ်များဖြင့်သာ ဆောင်ရွက်နေဆဲ ဖြစ်သည်။ ဩစတြေးလီးယားနှင့် နယူးဇီလန်နိုင်ငံတို့ရှိ ကြီးကျယ်သော သစ်လုပ်ငန်းများတွင် ခေတ်မီစက်ကရိယာ ပစ္စည်းများကို အသုံးပြုလျက်ရှိကြလေသည်။

သစ်လုပ်ငန်းသည် မြန်မာနိုင်ငံစီးပွားရေးစံနစ်၏ဒုတိယအချက်အချာ နေရာကို ယူထားပေသည်။ သစ်တောများ

ကို စံနစ်တကျ ပြုစုစောင့်ရှောက်ထားပါက ဆန်စပါးကဲ့သို့ ရာသီဥတုနှင့် မိုးရေချိန်ပေါ် မှီခိုခြင်းမပြုရပဲ နှစ်စဉ်ဝင်ငွေ မှန်မှန် ရနိုင်သော လုပ်ငန်းဖြစ်လေသည်။

မြန်မာ နိုင်ငံ၏ မြေပြင်ရေိယာ ၅၇ ရာခိုင်နှုန်းသည် သစ်တောများ ဖြစ်ကြ၍ ထိုသစ်တောများတွင် ကျွန်း၊ ပျဉ်းကတိုး၊ အင်၊ ကညင်၊ သစ်ယာ၊ အင်ကြင်း၊ပိတောက်၊ ယင်းမာစသော အဖိုးတန်သစ်များ ပေါက်ရောက်သည့်ပြင် လက်ပံ၊ ဒိဒူး၊ လျှော်ပြာ အစရှိသော မီးခြစ်သစ်အတွက် သစ်ပျော့များထွက်သည့် သစ်တောများလည်း ရှိပေသေးသည်။ မြန်မာ့ သစ်တောများတွင် ပေါက်ရောက်သည့် သစ်ပင်မျိုးစုံ အမျိုးပေါင်း ၂၀၀ ကျော်ရှိ၍ ယခုအချိန်အထိ ရောင်းတန်းဝင် သစ်ပင်အမျိုးပေါင်း ၅၂ မျိုးခန့် ရှိသည်ဟု သိရပေသည်။ ယင်းတို့ အနက် ကျွန်းသည် 'သစ်ဘုရင်' ဟု ခေါ်ဆိုရလောက်အောင် တန်ဖိုးလည်းရှိ လူကြိုက်လည်းများလှပေသည်။

မြန်မာနိုင်ငံထွက် သစ်အမျိုးမျိုးအနက် နိုင်ငံခြားက အထူးအလိုရှိသောသစ်သည် ကျွန်းဖြစ်သည်။ မြန်မာ့ကျွန်းသစ်၏အဖိုးတန်ပုံကို ခရစ် ရှစ်ရာစုနှစ်မှ ၁၆ ရာစုနှစ် အတွင်းက အရှေ့နိုင်ငံများသို့ ပင်လယ်ခရီးဖြင့် ရောင်းဝယ်ဖောက်ကားမှု ပြုခဲ့ကြသည့် အာရပ်လူမျိုးများက စ၍ သိခဲ့ကြသဖြင့် ယင်းတို့၏ လှေကြီးများ၊ ပင်လယ်ကူးသင်္ဘောများကို ကျွန်းသစ်ဖြင့် ဆောက်လုပ်ခဲ့ကြသည်။ ဥရောပတိုက်တွင် သမုဒ္ဒရာရေပြင်ကို စိုးမိုးနိုင်လျှင် ကမ္ဘာကိုလည်း စိုးမိုးနိုင်မည် ဟူသော အယူအဆ ခေတ်စားလာသော ခေတ်၊ ပင်လယ်ခရီးထွက်၍ ရေသစ်၊ မြေသစ်၊ စျေးကွက်သစ်များ ရှာကြသောခေတ်တွင် ဥရောပ နိုင်ငံများသည် မြန်မာ့ကျွန်းတောကြီးများကို လိုချင် မက်မော လာကြသည်။ ဗြိတိသျှတို့ မြန်မာနိုင်ငံကို သိမ်းပိုက်ခဲ့သည့် အကြောင်းရင်းတွင် အဖိုးတန် မြန်မာ့သစ်တောကြီးများကို ပိုင်ဆိုင်လိုမှုသည်လည်း အဓိက အကြောင်းရင်းတရပ် အဖြစ် ပါဝင်ခဲ့လေသည်။

ရှေးရှေးကမြန်မာနိုင်ငံတွင်စိမ်းစိုညိုမှိုင်းသောသစ်တော



ကျွန်းသစ်လုံးများကိုဖြတ်ယူရာတွင် သစ်တောဌာနခွက သတ်မှတ်ထားသော ခုတ်ကွက်များမှ သင်းသတ်ပေးသော ကျွန်းပင်များကိုသာလျှင် ဖြတ်ယူရသည်။

ကြီးများ အလွန်ပေါများခဲ့သည်။ လူနေအိမ်ခြေချဲ့ထွင်လာကြသဖြင့်၎င်း၊ သစ်တောများကို စည်းကမ်းမဲ့ ခုတ်လှဲကြသဖြင့်၎င်း သစ်တောများစွာပြုန်းခဲ့ရသည်။ ခရစ်နှစ် ၁၇၅၂ ခုတွင် နန်းတက်သော အလောင်းမင်းတရားကြီးလက်ထက်တွင် ကျွန်းပင်များသည် ဘုရင့်ဘဏ္ဍာတော်ပိုင် 'တော်ဝင်' ပစ္စည်းများဟု သတ်မှတ်ကျေညာ၍ စည်းကမ်းမဲ့ခုတ်ခြင်းကို တားမြစ်သဖြင့်သာ ကျွန်းပင်များ ပျက်စီးပြုန်းတီးမှုမှသက်သာတန်သရွေ့သက်သာခဲ့လေသည်။

ပဉ္စမ အင်္ဂလိပ်–မြန်မာစစ်ပွဲအပြီးတွင် အင်္ဂလိပ်တို့သည် မိမိတို့သိမ်းပိုက်ရရှိသော တနင်္သာရီတိုင်းမှ ကျွန်းတောများကို အိန္ဒိယနိုင်ငံရှိ ဗြိတိသျှ ရေတပ်မတော် သင်္ဘောများ တည်ဆောက်ရန် အတွက် စည်းကမ်းမဲ့ ခုတ်လှဲခဲ့သဖြင့် သစ်တောအများပင် ပြုန်းတီးခဲ့ရသည်။ ထို့ကြောင့်အိန္ဒိယဘုရင်ခံချုပ်သည် အစိုးရက ရွေးချယ် သတ်မှတ်ပေးခြင်းမပြုပဲ ကျွန်းပင်များကို မည်သူမျှ မခုတ်လှဲရ ဟူ၍ ခရစ် ၁၈၈၅ ခုနှစ်တွင် အမိန့်ထုတ်ပြန်ရသည်။ ၁၈၅၆ ခုနှစ်တွင် အိန္ဒိယနိုင်ငံ ဗြိတိသျှ အစိုးရသည် အိန္ဒိယနှင့် မြန်မာ သစ်တောများကို အုပ်ချုပ်ရန် ဂျာမန်လူမျိုး သစ်တောပါရဂူ ဒေါက်တာ ဗရန်းဒစ်ကို ခန့်ထားခဲ့သည်။ ထိုပုဂ္ဂိုလ်ကြီးသည် သစ်တောများအုပ်ချုပ်ရေး၊ ကာကွယ်ရေး၊ ပြုစုပျိုးထောင်ရေး၊ သစ်ထုတ်လုပ်ရေးတို့ကို စည်းကမ်းစံနစ်ကျနစွာ ဖြစ်စေရန် ခိုင်ခံ့သော အခြေခံအုတ်မြစ် ချထားပေးခဲ့ပေသည်။

သစ်လုပ်ငန်းကို မြန်မာနိုင်ငံ၌ အစောဆုံးလုပ်ကိုင်သည့် နိုင်ငံခြားသားကုမ္ပဏီကြီးများမှာ မင်းတုန်းမင်းတရားကြီး လက်ထက် ၁၈၅၈ ခုနှစ်မှစ၍အောက်မြန်မာနိုင်ငံ၌ လုပ်ကိုင်ခဲ့သော ဘုံဘေဘားမား ကုမ္ပဏီနှင့် ၁၈၆၀ ပြည့်နှစ်မှ စ၍ အထက်မြန်မာနိုင်ငံ၌ လုပ်ကိုင်ခဲ့သော မက္ကရီကာကုမ္ပဏီတို့ ဖြစ်ကြသည်။ မင်းတုန်း မင်းတရားကြီးသည် မြန်မာပိုင်နယ်မြေ အတွင်းရှိ သစ်တောများမှ ကျွန်းသစ် ရောင်းဝယ်ရေးကို တဦးတည်းမူပိုင် ပြုလုပ်ခဲ့သည်။ သို့သော် မြန်မာတနိုင်ငံလုံးကို ဗြိတိသျှတို့ သိမ်းပိုက်ပြီးနောက်တွင်မှ သစ်လုပ်ငန်းကို နိုင်ငံခြားသားကုမ္ပဏီကြီးများက လွှမ်းမိုးခြယ်လှယ်ခဲ့ရာ ထိုကုမ္ပဏီကြီးများမှာ အထက်ပါ ကုမ္ပဏီကြီးနှစ်ခုအပြင် စတီးဘရားသား၊ ဖူးကား ကုမ္ပဏီနှင့် ဖင်ဒလေ အင်ဆန်းကုမ္ပဏီများဖြစ်ကြသည်။ ဘအို ကျွန်းနှင့် သစ်မာ ကုမ္ပဏီအပြင် ဦးဘိုးတန်၊ ဒေါ်ကြူနှင့် ဦးသင်းမောင်တို့ကဲ့သို့ တိုင်းရင်းသားကုမ္ပဏီများ ရှိကြသော်လည်း ယင်းတို့စုစုပေါင်း၏ ငွေရင်းသည် နိုင်ငံခြားကုမ္ပဏီများထဲမှ အငယ်ဆုံး၏ ငွေရင်းကိုပင် မမှီနိုင်ချေ။ သစ်လုပ်ငန်းကို ပြည်ပိုင်အစိုးရထံမှ နှစ်ရှည် နှစ်တို စာချုပ်ဖြင့် လုပ်ကိုင်ကြရာ ငွေရင်းတောင့်သော နိုင်ငံခြား ကုမ္ပဏီကြီးများသာလျှင် နှစ်ရှည်စာချုပ်ဖြင့် လုပ်ကိုင်နိုင်သည်။ နှစ်ရှည် စာချုပ်သစ်တောများမှာလည်း သစ်ကောင်း အထွက်များလေသည်။

ဒုတိယကမ္ဘာစစ်ကာလအတွင်းကမူ မြန်မာသစ်တောများအတွင်း ကြွင်းကျန်ရစ်သောကျွန်းသစ်လုံးများကို နိပ္ပန်ဘားမား ကုမ္ပဏီက ဆက်လက် လုပ်ကိုင်ခဲ့သည်။ စစ်ပြီးကာလ၌ အထက်တွင် ဖော်ပြခဲ့သော နိုင်ငံခြား အင်္ဂလိပ်ကုမ္ပဏီကြီးများသည် အစိုးရနှင့် ဖက်စပ်၍ သစ်စီမံကိန်းဘုတ်အဖွဲ့ တည်ထောင်ပြီးလျှင် သစ်လုပ်ငန်းကို လုပ်ကိုင်ခဲ့သည်။ မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးနောက် ၁၉၄၈ ခုနှစ် ဇွန်လ တရက်နေ့မှ စ၍ ပြည်ထောင်စု အစိုးရသည် ပဲခူးရိုးမရှိ နှစ်ရှည်စာချုပ် သစ်တောများကို ပြည်သူပိုင် လုပ်လိုက်သည်။

ထိုနှစ်အတွင်း၌ပင် မြန်မာနိုင်ငံသစ်လုပ်ငန်းအဖွဲ့ ဟူ၍ ဖွဲ့စည်းပြီးလျှင် သစ်ထုတ်လုပ်ငန်းကို ထိုအဖွဲ့သို့လွှဲအပ်သည်။ ထိုနှစ် ကုန်ဆုံးလုနီးအချိန်တွင် ပြည်တွင်း သောင်းကျန်းမှုများ ဖြစ်ပေါ် လာသောအခါ နိုင်ငံခြား ကုမ္ပဏီကြီးများသည် နှစ်ရှည်စာချုပ်သစ်တောကြီးများနှင့် ရသင့်ရထိုက်သမျှတို့ကို ကျွန်းသစ်လုံး ၅၄,၇၅၀ နှင့် အလဲအလှယ်ပြုပြီးလျှင် အစိုးရသို့ ပြန်အပ်လေသည်။ ထိုအခါမှစ၍ သစ်လုပ်ငန်းကို နိုင်ငံတော်သစ်လုပ်ငန်းအဖွဲ့ (မြန်မာနိုင်ငံ သစ်လုပ်ငန်းအဖွဲ့) သည် သစ်ထုတ်ရေး၊ သစ်ခွဲရေး၊ နိုင်ငံခြားသို့ တင်ပို့ပေးရေး စသည်တို့ကို ဦးစီး ဆောင်ရွက်ခဲ့သည်။ သို့သော် နှစ်ရှည်စာချုပ်သစ်တောများမှ အပ ဖြစ်သော အချို့ သစ်တောများတွင် ခုတ်ကွက်ငယ်များ ပိုင်းခြားပြီးလျှင် တိုင်းရင်းသား သစ်ကုန်သည်များသို့ တင်ဒါ စံနစ်ဖြင့် ရောင်းချ၍ လုပ်ကိုင်ခွင့်ပြုခဲ့သည်။ သို့တိုင်အောင် ၁၉၆၁-၆၂ ခုနှစ်အတွင်း သစ်လုပ်ငန်းအဖွဲ့၏ အသားတင် အမြတ်ငွေသည် ၁၁၇ သိန်း ကျော်ခဲ့သည်။ တော်လှန်ရေးအစိုးရလက်ထက်တွင် ကျွန်းသစ်လုပ်ငန်းသာမက အခြားသစ်မာနှင့် ဇလီဖားတုံးလုပ်ငန်းများကိုလည်း မြန်မာနိုင်ငံ သစ်လုပ်ငန်းအဖွဲ့က စီစဉ်လုပ်ကိုင်လျက် ရှိလေသည်။

မြန်မာနိုင်ငံ သစ်လုပ်ငန်းအဖွဲ့သည် သစ်တော ဌာနခွဲနည်းတူ လယ်ယာစိုက်ပျိုးရေးနှင့်သစ်တောရေးဝန်ကြီးဌာန လက်အောက်ခံ ဖြစ်သည်။ သစ်တောရေးဌာန အတွက် သစ်တောဌာနခွဲနှင့် ပူးပေါင်းဆောင်ရွက်ရသည်။ သစ်ထုတ်ရေးကို တိုင်းလေးတိုင်းခွဲ၍ ဆောင်ရွက်ရာ ယင်းတို့မှာ (၁) စစ်တောင်းတိုင်း၊ (၂) ရေဝတီတိုင်း၊ (၃) ချင်းတွင်းတိုင်းနှင့် (၄) မန္တလေးတိုင်းတို့ဖြစ်ကြပြီးလျှင် ဌာနချုပ်ကို ရန်ကုန်မြို့၌ ထားရှိလေသည်။ ထို့ပြင် သစ်ခွဲရေး၊ သစ်ဖြန့်ချိရောင်းဝယ်ရေးစသော လုပ်ငန်းအလိုက် ဆောင်ရွက်ရသည့် ဌာနစိတ်များလည်း ရှိပေသေးသည်။



ခုတ်လှဲပြီးသောသစ်လုံးများကို ဆင်များဖြင့် ဆွဲကာ နီးစပ်ရာရေဆိပ်သို့ ချပေးရသည်။

အထက်ပါ တိုင်းများရှိ သစ်တောများမှ သစ်များကို ခုတ်ယူရာတွင် သစ်တောဌာနခွဲက သတ်မှတ်ပေးသော ခုတ်ကွက်များမှခုတ်ယူရသည်။ ကျွန်းသစ်များကို ထုတ်ယူရာ၌ သစ်တောဌာနခွဲက 'သင်းသတ်'ပေးသော ကျွန်းပင်များကို သာလျှင် ခုတ်ယူရသည်။ 'သင်းသတ်' သည် ဆိုသည်မှာ အပင်သေသွားအောင် ပြုခြင်းဖြစ်၍ 'သင်းသတ်' ပြီးသော ကျွန်းပင်များကို ချက်ခြင်း ခုတ်မယူသေးပဲ သုံးနှစ် အခြောက်ခံထားရသည်။ သို့မဟုတ်က ကျွန်းသစ်လုံးအစိုသည် အလွန်လေး၍ ရေမပေါ်သဖြင့် သစ်မျှောချရာတွင် အခက်အခဲတွေ့ရသည်။ ကျွန်းသစ်လုံးအခြောက်သည် ရေပေါ်သည့်ပြင်ရာသီဥတုဒဏ်ကို ခံနိုင်ရည်ရှိရာ ကျုံ့ခြင်းလိမ်ခြင်း မရှိပေ။

ပျဉ်းကတိုး၊ သစ်ယာ၊ အင်ကြင်း စသည်တို့ကိုလည်း ခုတ်ရန် အရွယ်သင့်အပင်များကို အမျိုးအစားလိုက်၍ သစ်တောဌာနခွဲက ရွေးချယ် ပေးပြီးလျှင် ပင်ထောင်တံဆိပ်ရိုက်နှိပ်ပေးရသည်။ ယင်းတို့ကိုမူ ကျွန်းပင်ကဲ့သို့ သင်းသတ်ခြင်းမပြုပဲ ခုတ်ကြသည်။ မြန်မာနိုင်ငံတွင် စက်မှုလုပ်ငန်းမတိုးတက်လှသေးသဖြင့် သစ်ခုတ်ရာတွင်များသောအားဖြင့် လွှများ ပုဆိန်များကိုပင် အသုံးပြုရသေးသည်။

ခုတ်လှဲပြီးသော သစ်လုံးများကို ဆင်များဖြင့် ဖြစ်စေ၊ ကျွဲများဖြင့်ဖြစ်စေ နီးရာ တောင်ကျချောင်းများ ရှိရာသို့ ဆွဲပို့ရသည်။ မြန်မာနိုင်ငံသစ်လုပ်ငန်းတွင် သစ်ဆွဲ၊သစ်ထုတ်ရာ၌ ဆင်များသည် အလွန်အရေးပါလှသည်။ ဒုတိယကမ္ဘာစစ်မတိုင်မီက သစ်လုပ်ငန်းတွင် ဆင်အကောင်ရေ ၆,၀၀၀ ကျော်ကို အသုံးပြုခဲ့ရာ စစ်ပြီးခေတ်တွင် စစ်ဒဏ်၊ ပြည်တွင်းသောင်းကျန်းမှု ဒဏ်တို့ကြောင့် ဆင်ကောင်ရေ ၂,၀၀၀ ခန့်ပင် မပြည့်တော့ချေ။ သို့ဖြစ်၍ သစ်လုပ်ငန်းအဖွဲ့သည် စစ်ပြီးခေတ် နောက်ပိုင်းတွင် သင့်လျော်သည့်နေရာများ၌ ဆင်အစား ထရက်တာများ၊ ဗူလဒိုဇာများ၊ ထရပ်ကားများ၊ ဝင့်စက်များဖြင့် သစ်ထုတ်အင်အားကို ဖြည့်စွက်

လျက်ရှိသည်။ သို့သော် ကျွန်းသစ်ထုတ်လုပ်ရေး၌မူ ဆင်များကို မသုံး၍မဖြစ်ပေ။

သစ်မာမျိုးတို့သည် ရေမပေါ်သောကြောင့် အခြားပေါ့သောသစ်များနှင့် တွဲ၍ဖြစ်စေ၊ ဝါးများနှင့် တွဲ၍ ဖြစ်စေ ဖောင်ဖွဲ့ပြီးလျှင် မျှောချရသည်။ တခါတရံ လှေများ တဖက်တချက်တွင် တွဲ၍လည်း သယ်ယူကြရလေသည်။ သစ်များကို ဖောင်ဖွဲ့ရန် ရွှေ့ပြောင်း သယ်ယူရသည်မှာ တရာသီအတွင်း ရောက်နိုင်သော်လည်း တောတွင်းမှ ကုန်းလမ်းဖြင့် သစ်မျှောချောင်းသို့ရောက်ရန်မှာ အချိန်ကြာမြင့်တတ်သည်။ အထူးသဖြင့် ကျွန်းသစ်လုံးများကို ရန်ကုန်နှင့် မော်လမြိုင်ရှိ သစ်စက်များသို့ အရောက် သယ်ယူရေးသည် အလွန်အချိန်ကြာသည်။ တခါတရံ ခုနစ်နှစ်၊ ရှစ်နှစ်ခန့်ပင် ကြာသည်။ ကျွန်းသစ်များ ထုတ်ယူရေးသည် ခုတ်ပြီးသည်မှ သစ်စက်သို့ရောက်သည်အထိ အချိန်ကြာမြင့်ခြင်း၊ ပို့ဆောင်ရေးခက်ခဲခြင်း၊ ကျွန်းပင်များကလည်း တနေရာတည်းတွင် တစုတရုံးတည်းမပေါက်ပဲ ပြန့်ကျဲ၍ ပေါက်ခြင်းတို့ကြောင့် ကျွန်းသစ်ထုတ်ယူရေးကို ငွေအင်အားကောင်းသော ကုမ္ပဏီကြီးများကသာ နှစ်ရှည်စာချုပ်ဖြင့် လုပ်ကိုင်နိုင်ခဲ့ခြင်းဖြစ်ပေသည်။

သစ်လုံးများကို သစ်စက်ကြီးများတွင် လွှစက်များဖြင့် ခွဲစိတ်ကြသည်။ လွှစက်မရှိသော ဒေသများတွင်မူ လက်ဆွဲလွှများကို အသုံးပြုရသည်။ မြန်မာနိုင်ငံ အထက်ပိုင်း သစ်တောများမှလာသောသစ်လုံးများကို မန္တလေးမြို့ရှိ လွှစက်များတွင် အများဆုံး သစ်ခွဲကြသည်။ ကျွန်းသစ် များကို ရန်ကုန်နှင့် မော်လမြိုင်ရှိ သစ်စက်ကြီးများတွင် သစ်ခွဲကြသည်။ မြန်မာနိုင်ငံတွင် ပဌမဆုံးသစ်စက်ကို ခရစ် ၁၇၃၃ ခုနှစ်တွင် မော်လမြိုင်မြို့၌ တည်ဆောက်ခဲ့သည်။ သစ်တောကြိုးဝိုင်းအနီးအနားရှိ မြို့များ၊ ဧရာဝတီမြစ်နှင့် ချင်းတွင်းမြစ်ရိုးတလျှောက်ရှိဆိပ်ကမ်းမြို့များ၊ မီးရထားလမ်းမြို့များတွင် သစ်စက်များရှိလေရာ ပုဂ္ဂလိကပိုင်များ ဖြစ်ကြသည်။ နိုင်ငံပိုင်သစ်စက်ကြီးများမှာ ရန်ကုန်၊ မော်လမြိုင်နှင့်ပျဉ်းမနားမြို့နယ်အတွင်းရှိ သစ်ပုပ်ပင်ရွာ၌ ရှိလေသည်။ ငှတ်



သစ်ဆွဲဆင်ဦးရေ နည်းပါးသောဒေသများတွင် ကျွဲများကို သစ်ဆွဲရာတွင် အသုံးပြုကြသည်။

လုန်ရေးအစိုးရသည် နိုင်ငံပိုင်သစ်စက်များကို တိုးချဲ့ပြုပြင်ပေးလျက်ရှိသည်။ ထို့ပြင် နိုင်ငံပိုင်အကြီးဆုံးနှင့်ခေတ်အမီဆုံး သစ်စက်ကြီးတလုံးကို အုတ်ကျင်းဥ္စရင်း၊ ထိုထက်ငယ်သော သစ်စက်တလုံးကို ဒလ၌ရင်း စတင် ဆောက်လုပ်လျက် ရှိလေသည်။

မြန်မာတနိုင်ငံလုံးမှ အကြမ်းဖျင်းအားဖြင့် နှစ်စဉ် သစ်တန်ချိန် ဆယ်သိန်းခန့်ထွက်သည်။ သစ်မာအမျိုးမျိုးသည် ခြောက်သိန်းခန့်ထွက်၍ ကျွန်းသစ်တန်ချိန် လေးသိန်းခန့်ထွက်သည်။ ယင်းသည့်အနက် နိုင်ငံတွင်းသုံး သစ်တန်ချိန်သည် အကြမ်းဖျင်းအားဖြင့် တန်ချိန်ခြောက်သိန်းခန့် ဖြစ်သည်။ သစ်အမျိုးမျိုးနှင့် အခြားသစ်တောထွက် ပစ္စည်းများအတွက် ၁၉၆၀ - ၆၁ ခုနှစ်မှစ၍ သစ်တောဌာနခွဲမှ ရရှိသော နှစ်စဉ်အခွန်တော်ငွေသည် ယေဘုယျအားဖြင့် သိန်း ၅၀၀ နှင့် ၆၀၀ အကြားတွင်ရှိသည်။ သစ်လုပ်ငန်းအဖွဲ့က ထုတ်ယူသော သစ်လုံးများ အတွက်လည်း အဖွဲ့က အခွန်ပေးဆောင်ရလေသည်။

သစ်လုံးများကို ခွဲစိတ်ပြီးနောက် အမျိုးအစားညံ့သော သစ်များကို နိုင်ငံတွင်းသုံးအဖြစ် ထား၍ ဈေးကောင်းရသော သစ်ကောင်းများကို နိုင်ငံခြားသို့တင်ပို့သည်။ နိုင်ငံခြားသို့ အများဆုံးတင်ပို့ရသောသစ်မာမျိုးမှာ ကျွန်းသစ်ဖြစ်သည်။အောက်မြန်မာနိုင်ငံကို အင်္ဂလိပ်တို့ သိမ်းယူပြီးစ ၁၈၅၆–၅၇ ခုနှစ်ကပင် ကျွန်းသစ်တန်ချိန် ခြောက်သောင်းကျော် တင်ပို့ခဲ့သည်။ထိုအခါမှစ၍ မြန်မာကျွန်းသစ်များကို တနှစ်ထက်တနှစ် တိုးတက် တင်ပို့နိုင်ခဲ့ရာ ၁၉၃၉–၄၀ ပြည့်နှစ်အတွင်း အများဆုံးတင်ပို့နိုင်ခဲ့၍ တန်ချိန်အားဖြင့် ၂.၃ သိန်းကျော်ဖြစ်သည်။ ထိုစဉ်က မြန်မာ ကျွန်းသစ်များကို အိန္ဒိယက အများဆုံးဝယ်ယူ၍ ဥရောပနိုင်ငံများက ဒုတိယအများဆုံး ဝယ်ယူရာ ယင်းတို့အနက် အင်္ဂလန်သည် အများဆုံးဝယ်ယူသော တိုင်းပြည်ဖြစ်လေသည်။

ဒုတိယကမ္ဘာစစ်ပြီးခေတ်တွင် မြန်မာ ကျွန်းသစ် ဈေးကွက် အခြေအနေ ပြောင်းသွားပြီးလျှင် ယခင်က အများဆုံးဝယ်ယူသော အိန္ဒိယသည် ရှစ်ပုံ တပုံခန့်သာ ဝယ်ယူတော့၍ အင်္ဂလန်ကမူ သုံးပုံတပုံခန့်သာ ဝယ်ယူလေသည်။ သို့သော် စစ်မတိုင်မီကာလက မဝယ်ခဲ့ဘူးသော တိုင်းပြည်များ၊အနည်းငယ်သာ ဝယ်ခဲ့ဘူးသော တိုင်းပြည်များ ဖြစ်ကြသော နော်ဝေး၊ ဆွီဒင်၊ ဒိန်းမတ်၊ အနောက် ဂျာမနီ၊



သစ်စက်ကြီးများအနီးတွင် ခွဲစိတ်ရန် အသင့်ဖြစ်နေသောသစ်လုံးများ



**သစ်လုံးများကို သစ်စက်များတွင် လိုအပ်သည့်အရွယ်အစားအလိုက် အလေအလွင့်မရှိရအောင် စံနစ်တကျ ခွဲစိတ် ဖြတ်တောက် ပေးရသည်။**

နယ်သာလန်၊ဣတလီ၊ဟောင်ကောင်စသည်တို့က တနှစ်ထက် တနှစ် တိုးတက်ဝယ်ယူခဲ့ကြသည်။ ထို့ကြောင့် မြန်မာကျွန်း သစ် ဈေးကွက်သည် ခိုင်မြဲလျက်ရှိနေ၍ လက်ရှိဈေးကွက် တွင် အင်္ဂလန်နှင့် ဥရောပနိုင်ငံများ၊ ကမ္ဘာ့ အရှေ့အလယ် ပိုင်းနိုင်ငံများနှင့် အာဖရိက၊ အိန္ဒိယ၊ ပါကစ္စတန်၊ သီဟိုဠ် ကျွန်း၊ ပီနန်၊ စင်္ကာပူ၊ ဟောင်ကောင်၊ ဂျပန်၊ အမေရိကန် ပြည်ထောင်စုနှင့် ကနေဒါနိုင်ငံတို့ ပါဝင်လေသည်။

စစ်ပြီးခေတ်တွင် ၁၉၄၅ ခုနှစ်မှ ၁၉၄၈ ခုနှစ်အထိ နှစ် များအတွင်း သစ်လုပ်ငန်းကို ကျနသေချာစွာ လုပ်ကိုင်နိုင် ခြင်းမရှိသော်လည်း ၁၉၄၅—၄၆ ခုနှစ်မှစ၍ သစ်များကို နိုင်ငံခြားသို့ တင်ပို့နိုင်စပြုခဲ့သည်။ ငါးနှစ်အတွင်း စစ်ကာ လမတိုင်မီ စံချိန်အတိုင်း နိုင်ငံခြားသို့ တင်ပို့နိုင်ရန် စီမံ ကိန်းများ ချမှတ်ခဲ့သော်လည်း အကြောင်း အမျိုးမျိုး ကြောင့် စီမံကိန်းအတိုင်း မပေါက်မြောက်နိုင်ခဲ့ချေ။ ယင်း သို့ မပေါက်မြောက်နိုင်ခဲ့ခြင်းမှာ စစ်ပြီးစဖြစ်၍ လုပ်ငန်း အခြေတကျမဖြစ်သေးခြင်း၊သစ်လုပ်ငန်းတွင် အလွန်အရေး ပါသော သစ်ဆွဲဆင်ဦးရေ ထက်ဝက်မက လျော့နည်းသွား ၍ လုပ်ငန်းနှောင့်နှေးခြင်း၊ သစ်ခိုးမှုများ အဆမတန်များ ပြားခြင်းတို့ကြောင့်လည်း ဖြစ်သည်။ မည်သို့ပင် ဖြစ်စေ ၁၉၄၇—၄၈ ခုနှစ်တွင် တန်ချိန်တသိန်းကျော် နိုင်ငံခြားသို့ တင်ပို့လာနိုင်သည်အထိ လုပ်ငန်းပြန်၍ အရှိန်ကောင်းလာ ဆဲတွင် ၁၉၄၈—၄၉ ခုနှစ်မှ အစပြု၍ ပြည်တွင်း သောင်း ကျန်းမှုများဒဏ်ကြောင့် ပြန်၍ အားလျော့သွားပြန်သည်။ သို့သော် ၁၉၅၅—၅၆ ခုနှစ်တွင် တန်ချိန် ရှစ်သောင်းကျော် အထိ တိုးတက်တင်ပို့နိုင်ခဲ့၍ ထိုနောက် နှစ်များတွင်လည်း သစ်များကို ပိုမိုထုတ်လုပ်နိုင်ပြီးလျှင် နိုင်ငံခြားသို့လည်း တိုးတက်တင်ပို့နိုင်ခဲ့သည်။ မြန်မာနိုင်ငံ သစ်ထုတ်လုပ်ရေး အဖွဲ့၏ ရည်မှန်းချက်မှာ ကျွန်းသစ်ကို တနှစ်လျှင် တန်ချိန် လေးသိန်းခွဲထုတ်လုပ်ရန် ဖြစ်လေသည်။

ကမ္ဘာ့ဈေးကွက်တွင် ဗြိတိသျှ ဝက်သစ်ချ၊ အမေရိကန် သစ်ကြား၊ ကနေဒါ သစ်နှင်းဆီနှင့် မြန်မာ့ ကျွန်းသစ်တို့ အပြိုင်အဆိုင်ဖြစ်နေရာ မြန်မာ ကျွန်းသစ်သည် ရှေ့တန်း

နေရာသို့ ရောက်နေခဲ့ပေသည်။ ကမ္ဘာ့တွင် ကျွန်းသစ်ထွက်သောနိုင်ငံသည် မြန်မာနိုင်ငံတခုတည်းမဟုတ်ချေ။ အိန္ဒိယ၊ ထိုင်း(ယိုးဒယား)၊ အင်ဒိုချိုင်းနားကျွန်းဆွယ်နှင့် အရှေ့အိန္ဒိယကျွန်းစု များမှလည်း ထွက်သည်။ ကမ္ဘာ့ဈေးကွက်တွင် မြန်မာနိုင်ငံသည် ကျွန်းသစ်အများဆုံးထုတ်လုပ်နိုင်၍ ထုတ်လုပ်သည့် ကျွန်းသစ် အမျိုးအစားကလည်း ကောင်းသည်။ အခြားကျွန်းသစ်ထွက် နိုင်ငံများအနက် ယိုးဒယားနိုင်ငံကသာလျှင် ကမ္ဘာ့ဈေးကွက်သို့ တန်ချိန်များစွာပို့နိုင်သည်။ အိန္ဒိယမှထွက်သော ကျွန်းသစ် များသည်လည်း ပြည်တွင်းသုံးအတွက်ပင် မလုံလောက်ချေ။ အရှေ့အိန္ဒိယကျွန်းစုမှ ကျွန်းသစ်များသည်လည်း သဘာဝပေါက် အပင်များမဟုတ်ပဲ စိုက်ပျိုး ယူရသော ကျွန်းပင်များ ဖြစ်၍ မြန်မာကျွန်းသစ်အဆင့်အတန်းကို မမှီသေးချေ။ အရှည်မြော်ကိုးသော စီးပွားရေး သုတေသီ ပါရဂူ အချို့သည် မြန်မာကျွန်းသစ်မျိုးကို အာဖရိကတိုက် တန်ဂန်ယိကနိုင်ငံ၊ ပြင်သစ်ပိုင် အနောက်အာဖရိကတိုက်၊ ထရင်းနီးဒက် (အနောက်အိန္ဒိယကျွန်းစု)ဖိလစ်ပိုင်နိုင်ငံ၊ မလေးရှားပြည်ထောင်စုတို့၌ စမ်းသပ်စိုက်ပျိုးလျက်ရှိကြလေသည်။

မြန်မာ့အိမ်နီးချင်းတနိုင်ငံဖြစ်သော ယိုးဒယားနိုင်ငံ၏ သစ်တောဧရိယာသည် စတုရန်းမိုင်၁၂၅,၅၀၀ ရှိရာ စတုရန်းမိုင် ၃၅,၅၀၀ ကျော်သည် ကျွန်းတောများဖြစ်သည်။ ယိုးဒယားသစ်တောများကို သုံးပိုင်းခွဲ၍ သစ်ထုတ်လုပ်သည်။ သုံးပုံတပုံခန့်ကို မြန်မာနိုင်ငံသစ်လုပ်ငန်းအဖွဲ့မျိုး ဖြစ်သော သစ်တောလုပ်ငန်းများအဖွဲ့က ထုတ်လုပ်သည်။ ဒုတိယ သုံးပုံတပုံကို ထိုအဖွဲ့နှင့် နိုင်ငံခြားကုမ္ပဏီများဖက်စပ်လုပ်ကိုင်ကြသည်။ တတိယသုံးပုံတပုံကိုမူ ပုဂ္ဂလိကကုမ္ပဏီများက လုပ်ကိုင်ကြသည်။ သစ်ခုတ်၊ သစ်ထုတ် လုပ်ကိုင်ပုံစနစ်များမှာ မြန်မာနိုင်ငံမှာကဲ့သို့ ကျွန်းသစ်လုံးများကိုခုတ်လှဲပြီးနောက် သစ်မျှောချောင်းများဖြင့် သစ်စက်များ ရှိရာသို့ မျှောချသည်။ အခြားလေးလံသော သစ်မာများကိုမူ ဆင်နှင့်ကျွဲများဖြင့်၎င်း၊ မီးရထားဖြင့်၎င်းသယ်ယူပို့ဆောင်သည်။ ယခုအခါယိုးဒယားနိုင်ငံတွင် ထရက်တာ၊ ဗူလဒိုဇာ၊ ထရပ်ကားများကို တွင်တွင်ကျယ်ကျယ် အသုံးပြုလျက်ရှိသည်။ ထိုသို့တိုင်အောင် ကမ္ဘာ့ဈေးကွက်သို့ တင်ပို့လျက်ရှိသောယိုးဒယားသစ်တန်ချိန်သည် ၁၉၆၂ ခုနှစ်က ၆,၄၂၇ တန်ဖြစ်ရာ ထိုနှစ်က မြန်မာနိုင်ငံမှ သစ်မာ ၆၇,၅၂၁ တန် တင်ပို့နိုင်ခဲ့လေသည်။ ဈေးကွက်ချင်းလည်း မြန်မာနှင့် ယိုးဒယားမတူချေ။ မြန်မာကျွန်းသစ်ကို အနောက်နိုင်ငံများက အသုံးများ၍ ယိုးဒယားကျွန်းသစ်ကို အရှေ့နိုင်ငံများက အသုံးများလေသည်။

မြန်မာကျွန်းသစ်များ ကမ္ဘာ့ဈေးကွက်၌ မျက်နှာပန်းလှရခြင်းအကြောင်းရင်းသည်ကား မြန်မာသစ်တောများကို စည်းကမ်းတကျ ထိန်းသိမ်းခဲ့၍ စည်းကမ်းတကျ သစ်ထုတ်ရေးကို ဆောင်ရွက်ခဲ့သောကြောင့် ဖြစ်ပေသည်။ စင်စစ်သော်ကား မြန်မာ့ကျွန်းပင်များသည် မြန်မာနိုင်ငံ၏ ရွှေပင်ငွေပင်များဟု ဆိုရမည်သာ ဖြစ်လေသည်။

# အရသာလည်းရှိ၊ အာဟာရလည်းဖြစ်သော အစာ

**သစ်သီးနှင့်ဝလံသည် မတူပေ။ အပူပိုင်းဒေသထွက် သစ်သီးနှင့် အအေးပိုင်းဒေသထွက် သစ်သီး၊ စီးပွားကုန်သွယ်ရေးတွင် အရေးပါသော လုပ်ငန်းတရပ်၊ မြန်မာနိုင်ငံ၏ သစ်သီးဝလံများ၊ သစ်သီးဝလံ တိုးတက် ထွက်ရှိရေး အလားအလာများ။**

**သစ်သီးဝလံ**။ ။'သစ်သီးဝလံ' ဟူသော မြန်မာ ဝေါဟာရတွင် အသီးနှစ်မျိုးနှစ်စား ပါဝင်နေသည်။ သစ်သီးဟူသည် သရက်၊ ပိန္နဲ၊ လိမ္မော် စသော သစ်ပင်ကြီးငယ်တို့မှ သီးသော အသီးကို ယေဘုယျအားဖြင့် ခေါ်ဝေါ်ကြ၍ စပျစ်သီး၊ ဖရဲသီးကဲ့သို့သော အနွယ်မှ သီးသော အသီးတို့ကို ဝလံဟု ခေါ်ကြသည်။ နာနတ်သီးကိုမူ အနွယ်ပင်မျိုးမှ သီးခြင်းမဟုတ်ပဲ အပင်မှ သီးသဖြင့် သစ်သီးအမျိုးအစား၌ပင် ထည့်သွင်းရပေမည်။

ရုက္ခဗေဒအရဆိုလျှင် သစ်သီးဝလံ ဟူသည်မှာ အပင်ကြီးမှ သီးသည်ဖြစ်စေ၊ အပင်ငယ်မှ သီးသည်ဖြစ်စေ အစေ့နှင့်တကွ အစေ့ကို ဆောင်ကြဉ်းထားသော အစိတ်အပိုင်းတခုလုံးသည် သစ်သီးဖြစ်လေသည်။ သစ်သီးသည် ဝတ်မှုန်ကူးယှက်ခြင်းဖြင့် မျိုးတည်ရန် အောင်မြင်သော အစေ့လောင်း ကြီးထွားဖြစ်ပေါ်ခြင်းဟု ဆိုသည်။ သန္ဓေအောင်မြင်သဖြင့် အစေ့အိမ်၏ ပါးလွှာ၍ အစိမ်းရောင် ရှိသော နံရံသည် အသီးခွံအဖြစ်သို့ အဆင့်ဆင့် ပြောင်းလာသည်။ အသီးခွံသည် အသားများသည်လည်း ရှိသည်။ ပျဉ်းတွဲတွဲနေသည်လည်း ရှိသည်။ မာကျောကျော နေသည်လည်း ရှိလေသည်။

သစ်သီးများကို အဓိကအားဖြင့် (၁) အသားထူအသီးမျိုး၊ (၂)အစေ့ခွံမာသီးမျိုး၊ (၃) အခြောက်သီးမျိုးဟူ၍ သုံးမျိုး ပိုင်းခြားထားသည်။ အသားထူ အသီးမျိုးတွင် အစေ့ကို ဖုံးအုပ်ထားသော အသားသည် ထူ၍ အရည်လည်း ရွှမ်းသည်။ ပန်းသီး၊လိမ္မော်သီး၊ သရက်သီးတို့သည် ထိုအမျိုးအစားတွင် ပါဝင်ကြသည်။ အစေ့ ခွံမာသီးမျိုးတွင် အပြင်ဖက်ရှိ အသားသည် ထူ၍ အရည်ရွှမ်းတတ်သော်

လည်း မက်မုံသီး၊ ဗင်္ဂလားဆီးသီး၊ချယ်ရီသီးတို့ကဲ့သို့ အစေ့ကို အခွံမာတထပ် ဖုံး၍နေတတ်သည်။ အခြောက်သီးဆိုသည်ကား အစေ့ဆန် စားရသောအသီး ပဲသီးမျိုးနှင့် အသီးတောင့်မျိုးတို့ ပါဝင်သည်။

ရုက္ခဗေဒအရ သစ်သီးစစ်နှင့် သစ်သီးတု ဟူ၍ ခွဲခြားပြန်သည်။ သစ်သီးစစ်သည် အစေ့အိမ်နံရံ ကြီးထွားဖြစ်ပေါ်သော အသီးမျိုးဖြစ်သည်။ သစ်သီးစစ်တွင် ပဲသီးတောင့်ကဲ့သို့ ကွဲအက်ထွက်သော အသီးမျိုးနှင့် ချယ်ရီ၊ ဗာဒမ်တို့ကဲ့သို့ အစေ့ခွံမာသီး စသော အစေ့ခွံ ကွဲမထွက်သော အသီးမျိုးဟူ၍ နှစ်မျိုးနှစ်စား ရှိပြန်သည်။

သစ်သီးတု ဟူသည်ကား ပန်းသီး၊ သစ်သော့သီးတို့ကဲ့သို့ ပွင့်ရင်းခံ ကြီးထွား၍ အသားထူထဲကာ ဖြစ်ပေါ်လာသော အသီးမျိုးဖြစ်သည်။ စတြော်ဗရီသီးသည်လည်း သစ်သီးတုတမျိုး ဖြစ်လေသည်။

လူတို့သည် စားရသော သစ်သီးများကိုသာ အသိများကြသည်။ သို့သော် မစားရသော သစ်သီးများလည်း အများအစား ရှိပေသည်။ စားရသော သစ်သီး အမျိုးအမည် ရာထောင်မက ရှိသည့်အနက် အသားစားရသော သစ်သီးမျိုးလည်းရှိ၍ အဆန်ကိုသာ စားရသော သစ်သီးမျိုးလည်း ရှိသည်။ သစ်သီးနှင့်ဟင်းသီး ခြားနားချက်မှာ သစ်သီးဝလံတို့ကို မချက်မပြုတ်ပဲ နဂိုအတိုင်း စားသုံးနိုင်ကြသည်။ သစ်သီးဝလံတို့သည် အနံ့အရသာနှင့် သဘာဝအလျောက် ပြည့်စုံကြသဖြင့် သစ်သီးဝလံကို မကြိုက်မနှစ်သက်သူ အလွန်ရှားပါးပေလိမ့်မည်။ သစ်သီးဝလံတို့တွင် အဓိကပါရှိသော အရာများကား သကြားနှင့် ရေဖြစ်သည်။ ထို့ပြင် အက်ဆစ်နှင့် ဗီတာမင်များ ပါရှိရာ သစ်သီးဝလံများကို စားသောက်ပေးခြင်းဖြင့် ကျန်းမာရေးနှင့် ညီညွတ်နိုင်စေသောကြောင့် သစ်သီးဝလံများသည် လူတို့အတွက် အရေးပါသော အာဟာရတမျိုး ဖြစ်လေသည်။

သစ်သီး လတ်လတ်ဆတ်ဆတ်များတွင် ရေငွေ့ ၇၅ မှ ၉၆ ရာခိုင်နှုန်းမျှ ပါရှိတတ်သဖြင့် အာဟာရ ဖြစ်စေသော အထည်ဒြပ် အများအပြား မပါရှိပေ။ ထို့ကြောင့် ကိုယ်ခန္ဓာ တည်ဆောက်ပေးသော ပရိုတင်း အနည်းအကျဉ်းမျှသာ ပေးနိုင်သည်။ အဆီဟူ၍ကား မပါရှိပေ။ သစ်သီးမှည့်များသည် အစာကြေလွယ်သည်။ သို့သော် အခွံနှင့် အစေ့များကိုမူ စွန့်ပစ်သင့်ပေသည်။ သစ်သီးဝလံများမှ ရရှိနိုင်သော အာဟာရဓာတ်များကား ဗီတာမင်များ၊ သတ္တုဓာတ်များနှင့် အက်ဆစ်တို့ဖြစ်ကြလေသည်။ ယင်းတို့သည် လူတို့ ကျန်းမာ သန်စွမ်း အသက်ရှည်ရေးအတွက် ထိန်းပေးကြလေသည်။

သစ်သီးများတွင် အများဆုံး ပါရှိတတ်သော ဗီတာမင်စီသည် သွားနှင့် သွားဖုံးများကို ကြံ့ခိုင်စေ၍ ကိုယ်ခန္ဓာကို သွက်လက် ပေါ့ပါးစေသည်။ အခြောက်သီးမျိုးတွင် ပါဝင်သော အချို့ သစ်သီးများတွင် ရောဂါကူးစက်ပြန့်ပွားခြင်း၊ မျက်စိ ကြက်မျက်သင့်ခြင်းတို့မှ တွန်းလှန်ကာကွယ်နိုင်သော ဗီတာမင် အေ ပါရှိသည်။ အချို့ သစ်သီးမျိုးတွင် အာရုံ နာဗ်ကြောတို့ကို ထိန်းပေးသော ဗီတာမင် ဘီ ၁၊ ကိုယ်ခန္ဓာ ဖွံ့ဖြိုးမှုကို ဖြစ်စေသော ဗီတာမင် ဘီ ၂ တို့ပါဝင်သည်။ သစ်သီး ဟူသမျှသည် ကယ်လစီယမ်၊ ဖော့စဖောရပ်၊ သံဓာတ်တို့ပါဝင်ရာ သွေးစင်ကြယ်ကောင်းမွန်ခြင်း၊ ခန္ဓာကိုယ် ကြံ့ခိုင်ခြင်းတို့ကို အားပေးသည်။ သစ်သီးများတွင် ပါဝင်သော အရည်နှင့် အဖတ်များသည် ကိုယ်ခန္ဓာတွင်းရှိ အဆိပ်များ၊ အညစ်အကြေးများ စွန့်ထုတ်ပစ်ရာတွင် များစွာ အကူအညီ ပေးလေသည်။

အာဟာရဖြစ်စေသော သစ်သီးဝလံများကို လေးမျိုး ခွဲခြားနိုင်သည်။ ယင်းတို့မှာ (၁)ပန်းသီး၊ သစ်သော့၊ ငှက်ပျော စသော ပျော့ဖတ်ပါ၍ အားဖြစ်စေပြီးလျှင် ဝမ်းသက်စေတတ်သော အသီးမျိုး၊ (၂)စပျစ်သီး၊ ရက်စဗဲရီ စသည့် သတ္တုဓာတ် ကြွယ်ဝ၍ ကျောက်ကပ်နှင့် အာရုံနာဗ်ကြောများကို အားပေးသည့် ဗဲရီဟု ခေါ်သော စေ့များ ခွံပျော့သီးမျိုး၊ (၃)လိမ်မော်၊ ရှောက် စသည့် အယ်လကလိုင်ဓာတ်ပါ၍ အစာကြေလွယ်စေသော အသီးမျိုးနှင့် (၄)စွံပလွံ၊ ဆီးသီးတို့ကဲ့သို့ အလွန်ခွန်အားဖြစ်စေပြီးလျှင် ဓာတ်မှန်စေသော အသီးမျိုးတို့ ဖြစ်ကြလေသည်။

သစ်သီးဝလံတို့သည် စားသုံးသူတို့အား အာဟာရဖြစ်စေ၍ ကျန်းမာရေးနှင့် ညီညွတ်စေကာ ရောဂါတို့ကို တွန်းလှန်နိုင်စွမ်း ပေးသည့်ပြင် အစေ့များကို ပြန့်ပွားစေခြင်းဖြင့် အပင်မျိုးပွါးနှံ့မှုကိုလည်း ဆောင်ရွက်သည်။ အသီးမှ အစေ့များသည် လေတိုက်ခြင်းကြောင့်၎င်း၊ ရေကြောင့်၎င်း၊ တိရစ္ဆာန်များကြောင့်၎င်း၊ လူတို့ကြောင့်၎င်း၊အသီးပေါက်ကွဲ၍၎င်း မျိုးပွါးနှံ့ကြလေသည်။

အင်သီး၊ သစ်စေးသီးတို့သည် လေအဟုန်စီး၍ ပါသွားနိုင်ရန် အတောင်သဖွယ် အင်္ဂါအစိတ်အပိုင်းများ ပါရှိသည်။ အင်သီးတွင် အတောင်ရှည် နှစ်ခုပါ၍ သစ်စေးသီးတွင် ရိုးတံနှင့်ဆက်လျက် အတောင်ငါးခုပါသည်။ လေတိုက်ခတ်၍ ထိုအသီးများ ကြွေသောအခါ မြေပေါ်သို့ ရုတ်တရက် မကျပဲ လေအဟုန်ဖြင့် အတော်ဝေးဝေးသို့ လွင့်ပါသွားကြသည်။ ပိတောက်သီးတွင် အမြွေးပါးကဲ့သို့သော ဘေးအသားသည် ဝိုက်လျက်တည်ရှိ၍ ကြောင်လျှာစေ့နှင့် ဒန့်သလွန်စေ့တို့တွင် စက္ကူကဲ့သို့ ပါးလွှာသော အတောင်များ ရှိသဖြင့် လေတိုက်ရာသို့ လွင့်ပါနိုင်ကြသည်။ အချို့ အသီးများတွင်မူ လေတိုက်ရာသို့ လွင့်ပါနိုင်သော အမွေးများရှိလေသည်။

ရေစပ်တွင် ပေါက်ရောက်သော အပင်များ၊ သို့မဟုတ်

ရေတွင် ပေါက်ရောက်သော အပင်များမှ အသီးများသည် ရေပေါ်တွင် ပေါလော မျောပါသွားကြသည်။ ယင်းသို့ဖြင့် အပူပိုင်းဇုန်ဒေသ ကမ်းရိုးတန်းတလျှောက်တွင် အုန်းပင်များ ပေါက်ရောက်ကြလေသည်။

အချို့ အသီးများ၏ အစေ့များသည် တိရစ္ဆာန်တို့၏ ကိုယ်တွင် တွယ်ကပ်၍ ပါနိုင်သော ချိတ်သဖွယ် ဆူးကလေးများသော်၎င်း၊ အစေးများသော်၎င်း ပါရှိသည်။ ကြက်မောက်သီးနှင့် သမင်မွေးသီးတို့သည် ယင်းသို့အားဖြင့် မျိုးစေ့များ ပျံ့နှံ့ကြသည်။ ရှဉ့်၊ကြွက်၊ လင်းနို့စသော အကောင်များသည် အသီးနှင့်အစေ့ကို စုဆောင်းသိုလှောင်ထားကြသဖြင့်လည်း မျိုးစေ့ပျံ့နှံ့ရသည်။ မြေစေး၊ ရွှံ့စေးများပေါ်သို့ ကျရောက်သော အစေ့ငယ်များသည် ကျေးငှက်များ၏ ခြေထောက်များတွင် ကပ်ပါသွား၍ နေရာ အနှံ့အပြားသို့ မျိုးစေ့များ ရောက်ရှိရလေသည်။

လူတို့သည်လည်း သစ်သီးဝလံများကို တနေရာမှတနေရာသို့ သယ်ဆောင် စားသုံးကြခြင်းဖြင့် မျိုးစေ့များ ပြန့်ပွားကြလေသည်။

အချို့ အသီးများသည် ခြောက်လာသောအခါ အသီးခွံကွဲ၍ အထဲမှ အစေ့များ အဝေးသို့ စဉ်ထွက်ကြသည်။ သစ်ကတိုးသီးသည် ယင်းကဲ့သို့သော အသီးမျိုးဖြစ်သည်။ စဉ်ထွက်သော အစေ့များသည် အဝေးသို့ရောက်ရှိရာ မျိုးပျံ့နှံ့လေသည်။

ရှေးရှေးက လူတို့သည် သစ်သီးဝလံများကို တမင်သက်သက်စိုက်ပျိုးလုပ်ကိုင်ကြသည်ဟူ၍ မရှိခဲ့ပေ။ အလေ့ပေါက် အပင်များမှ ရာသီအလိုက် သီးသော အသီးများကိုသာ ခူးဆွတ်စားသုံးခဲ့ကြသည်။ နောင်အခါတွင်မူ ပြည်တွင်းသုံး လုံလောက်ရုံမျှ စိုက်ပျိုးလာကြရာမှ သစ်သီးဝလံ စိုက်ပျိုးရေးကို တစတစ တိုးတက်ချဲ့ထွင်လာကြသဖြင့် လုပ်ငန်းကြီးတရပ် ဖြစ်လာသည်။ ကမ္ဘာ့အရပ်ရပ်၌ ရေ မြေနှင့် ရာသီဥတုကို လိုက်၍ သစ်သီးဝလံတို့ကို အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်ကြသော တိုင်းပြည်များ ပေါ်ပေါက်များပြားလာသည်။ သစ်သီးဝလံစိုက်ပျိုးရေးသည် လုပ်ငန်းကြီးတရပ် ဖြစ်လာသည်နှင့်အညီ သစ်သီးခြံ စိုက်ပျိုးလုပ်ကိုင်သူတို့သည် ကမ္ဘာဦးက ရှိခဲ့သော သစ်သီးမျိုးတို့ဖြင့်သာ မတင်းတိမ် မရောင့်ရဲကြပဲ မျိုးစပ် စိုက်ပျိုးခြင်းတို့ကိုလည်း ပြုခဲ့ကြသည်။ ယင်းသို့ မျိုးစပ်ယူခြင်းဖြင့် အခွံပါးသော အသီး၊ ဆူးမဲ့သောအသီး၊ အစေ့နည်းသောအသီး၊အဆင်းပိုလှသောအသီး၊ ပို၍ ထွားကြိုင်းသောအသီးများဖြစ်ထွန်းသည်အထိ အောင်မြင်ခဲ့၍ သစ်သီး အမျိုးအမည်များ ပိုမိုများပြားလာခဲ့သည်။သို့သော် အထူးဂရုစိုက်၍ ပြုစုစိုက်ပျိုးသော မျိုးပင်များနှင့် မျိုးသန့်ထားသည့် အပင်များသည် ပင် အစေ့စိုက်ခြင်းဖြင့် မျိုးပွားယူသည့်အခါ မူလ အရိုင်းပင်၏ ဇာတိလက္ခဏာများ ပြန်၍ ပေါ်လာတတ်သည်။ ထိုအခါ ယင်းသို့ အပင်များ ပြန်ရိုင်းမသွားစေရန် တီထွင်ကြံဆခဲ့ကြရာ အကိုင်းဆက် စိုက်ပျိုးခြင်းဖြင့် ထိုအခက်အခဲကို အောင်မြင်နိုင်ကြောင်း တွေ့ကြရလေသည်။

ရှေးက သစ်သီးများကို ယင်းတို့ ထွက်ရှိသည့် ဒေသ၌သာ လတ်လတ်ဆတ်ဆတ် စားသုံးကြရသည်။ ယခုအခါတွင်မူ လျင်မြန်သော သယ်ယူပို့ဆောင်ရေးစနစ်နှင့် အအေးခန်းများဖြင့် ကြာရှည်စွာ လတ်ဆတ်နေအောင် ထားနိုင်သည့် စနစ်များ ပေါ်ပေါက်လာသည့် ကျေးဇူးကြောင့် သစ်သီးမျိုးစုံကို ကမ္ဘာအနှံ့ လတ်ဆတ်စွာ စားသုံးနိုင်ကြအောင် တင်ပို့ကြသည်။ ထို့ပြင် ရာသီမရွေး၊ အချိန်မရွေး ရနိုင်သော စည်သွတ်သစ်သီး၊ သစ်သီးခြောက်၊ သစ်သီးဝလံမှ ပြုလုပ်သော အဖျော်ယမကာများကိုလည်း ပို၍ပို၍ သုံးစွဲလာကြလေသည်။

ကမ္ဘာ့ အပူပိုင်းဇုန် ဒေသမှုရင်း၊ သမပိုင်းဒေသမှုရင်း သစ်သီးများ ထွက်ရှိရာ အပူပိုင်းဒေသထွက် ကျော်ကြား၍ ရောင်းဝယ် ဖောက်ကားရေး၌ အရေးပါသော သစ်သီးများကို အစီအစဉ်အလိုက် ဖော်ပြရလျှင် ငှက်ပျော၊ အုန်း၊ သရက်နှင့် နာနတ်တို့ ဖြစ်သည်။ ယင်းတို့နောက် ဒုတိယတန်းစား အရေးပါသော သစ်သီးများမှာ ကိုကိုး၊ သဘော်၊ မာလကာ၊ သီဟိုဠ်သရက် စသည်တို့ဖြစ်သည်။

သစ်သီးဝလံ လောကတွင် ပို၍ ထင်ရှား ကျော်ကြားသော အသီးများမှာ သမပိုင်းထွက် သစ်သီးများ ဖြစ်ကြ၍ ယင်းတို့မှာ စပျစ်သီး၊ ပန်းသီး၊ သစ်သော်သီး၊ မက်မုန်သီး၊ တည်သီး၊ သံလွင်သီး၊ စွံပလွံသီး၊ လိမ်မော်၊ စတြော်ဗရီ၊ ရှောက်၊ သံပရာ စသည်တို့ ဖြစ်ကြလေသည်။

သစ်သီးဝလံ စိုက်ပျိုးရေးလုပ်ငန်း ကြီးကျယ်သော တိုင်းပြည်များတွင် အမေရိကန်ပြည်ထောင်စုသည် ထိပ်ဆုံးဖြစ်သည်။ ရာသီဥတု ရေ မြေ အနေအထား အမျိုးမျိုးရှိသဖြင့် ကာလဒေသအလိုက် သစ်သီးဝလံ အမျိုးမျိုးကို မြေရာ ကေပေါင်း ကုဋေကုဋာနှင့် ချီ၍ စိုက်ပျိုးလုပ်ကိုင်ကြသည်။ သမပိုင်းထွက် သစ်သီးများသာမက အပူပိုင်းဇုန်သစ်သီးများကိုပါ နည်းအမျိုးမျိုးဖြင့် စိုက်ပျိုးလုပ်ကိုင်ကြရာ ဖြစ်မြောက် အောင်မြင်လျက် ရှိသည်။ အမေရိကန်ပြည်ထောင်စုသည် သမုဒ္ဒရာနှစ်စင်း အကြား၌ တည်ရှိ၍ နိုင်ငံအတွင်း၌လည်း မြစ်ချောင်း အင်းအိုင်များ အများအပြားရှိပြီးလျှင် မီးရထား၊ မော်တော်ကား လမ်းကောင်းများဖြင့် ပြည့်စုံသဖြင့် သယ်ယူပို့ဆောင်ရေး လွယ်ကူခြင်း၊ အအေးခန်းများ ထားနိုင်သဖြင့် အချိန်ရာသီမရွေး သစ်သီးဝလံအမျိုးမျိုးကို ရနိုင်ခြင်းတို့ကြောင့် သစ်သီးဝလံလုပ်ငန်းတွင် အမေရိကန်နိုင်ငံသည် ရှေ့ပြေး ခေါင်းဆောင် ဖြစ်ခဲ့လေသည်။

အချို့ တိုင်းပြည်များတွင် ခြောက်သွေ့သော ဒေသများ၌ပင် ရေသွယ်စံနစ်ဖြင့် သစ်သီးဝလံ စိုက်ပျိုးရေးကို လုပ်ကိုင်ကြရသည်။ ကနေဒါနိုင်ငံ အနောက်ပိုင်း၊ အမေရိကန် ပြည်ထောင်စု၊ အာဂျင်တီးနားနှင့် သြစတြေးလီးယားနိုင်ငံတို့တွင် ထိုစံနစ်ဖြင့် စိုက်ပျိုးရသော သစ်သီးခြံကြီးများရှိလေသည်။

ကမ္ဘာ၌ အများဆုံး စိုက်ပျိုး လုပ်ကိုင်ကြသော သစ်သီးဝလံတို့မှာ ပန်းသီး၊ သစ်သော့သီး၊ လိမ်မော်၊ ကျွဲကော၊ ရှောက်၊ ငှက်ပျော၊ စပျစ်သီးတို့ဖြစ်သည်။ ပန်းသီးစိုက်ပျိုးသော တိုင်းပြည်များကို အသီးထွက် အနည်းအများ အစီအစဉ်လိုက် ဖော်ပြရလျှင် အမေရိကန် ပြည်ထောင်စု၊ ဂျာမနီ၊ ဆိုဗီယက် ရုရှ၊ ပြင်သစ်၊ ဂရိတ်ဗြိတိန်၊ ကနေဒါနှင့် သြစတြေးလီးယားတို့ ဖြစ်ကြသည်။

သစ်သော့သီး စိုက်ပျိုးရေး ကြီးကျယ်သော တိုင်းပြည်များကား အမေရိကန် ပြည်ထောင်စု၊ ဆိုဗီယက်ရုရှ၊ ဂျာမနီ၊ ပြင်သစ်၊ ဂျပန်၊ အာဂျင်တီးနား၊ သြစတြေးလီးယား၊ ဂရိတ်ဗြိတိန်နှင့် တောင်အာဖရိကတို့ ဖြစ်ကြသည်။

လိမ်မော်၊ ရှောက်၊ ကျွဲကောတို့သည် အမေရိကန် ပြည်ထောင်စု၊ ဂျပန်၊ စပိန်၊ ဗရာဇီး၊ ဣတလီ၊ ပယ်လက်စတိုင်၊ တောင်အာဖရိက၊ သြစတြေးလီးယားနှင့် အနောက်အိန္ဒိယ ကျွန်းစုများမှ အများအပြား ထွက်ရှိသည်။

စားပွဲတင် စပျစ်သီးများကို အများအပြား စိုက်ပျိုးလုပ်ကိုင်သည့် တိုင်းပြည်များမှာ ဗူလဂေးရီးယား၊ အမေရိကန် ပြည်ထောင်စု၊ ဣတလီ၊ ဟန်ဂေရီ၊ နယ်သာလန်၊ တောင်အာဖရိက၊ ဗဲလဂျီယမ်၊ အယ်လဂျီးရီးယားနှင့် အာဂျင်တီးနားတို့ ဖြစ်သည်။ စပျစ်သီး ဝိုင် အရက်များကို ပြင်သစ်၊ ဣတလီ၊ စပိန်၊ အယ်လဂျီးရီးယား၊ ပေါ်တူဂီ၊ တောင်အာဖရိကနှင့် သြစတြေးလီးယားနိုင်ငံတို့မှ ထုတ်လုပ်လေသည်။

စပျစ်သီးခြောက်၊ ဆီးသီးခြောက် စသည်တို့သည် အမေရိကန် ပြည်ထောင်စု၊ ဂရိ၊ သြစတြေးလီးယားနိုင်ငံတို့၏ အရေးပါသော ထွက်ကုန်များဖြစ်၍ တူရကီနိုင်ငံမှလည်း အတော်အသင့် ထွက်လေသည်။

အပူပိုင်းဇုန် သစ်သီးများအနက် အရေးအပါဆုံးသော ငှက်ပျောသီးကို ဟာဝိုင်းယီကျွန်းစု၊ အမေရိကတိုက်အလယ်ပိုင်း၊ မက္ကဆီကို၊ ကျူးဗား၊ ကနေရီကျွန်းစု၊ အနောက်အိန္ဒိယကျွန်းစု၊ အက်ကွာဒေါ၊ ဗရာဇီးနိုင်ငံတို့တွင် အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်သည်။ အုန်းသီးကို အကြီးအကျယ် စိုက်ပျိုး ရောင်းဝယ်သော ဒေသများမှာ မလ္လာယု ကျွန်းဆွယ် မလေးရှားနိုင်ငံ၊ ဖိလစ်ပိုင်ကျွန်းစုနှင့် ပိုလီနီရှားတို့ဖြစ်၍ အမေရိကတိုက် အပူပိုင်းဇုန် ဒေသများမှလည်း အများအပြား ထွက်သည်။ သရက်သီးသည် အပူပိုင်းဒေသ နိုင်ငံများ၌ အများအပြား ထွက်ရှိသော်လည်း ရောင်းဝယ် ဖောက်ကားရန် ကြီးကြီးကျယ်ကျယ် စိုက်ပျိုးသော နိုင်ငံမှာ အိန္ဒိယတနိုင်ငံတည်းသာ ရှိလေသည်။ နာနတ်သီးကိုလည်း အပူပိုင်းဒေသများ၌ စိုက်ပျိုးလုပ်ကိုင်နိုင်သည်။ သို့သော် ကမ္ဘာ့အရပ်ရပ်၌ စည်သွတ်နာနတ်များကို အသုံးများ၍ ထိုလုပ်ငန်း ကြီးကျယ်သော တိုင်းပြည်များမှာ ဟာဝိုင်းယီကျွန်းစု၊ မလ္လာယုကျွန်းဆွယ်နှင့် ကွင်းစလန်ပြည်နယ် (သြစတြေးလီးယား)တို့ ဖြစ်ကြလေသည်။

သစ်သီးဝလံများကို စိုက်ပျိုးရာ၌ စိုက်ပျိုးမည့် အပင်နှင့် သင့်လျော်သော ရေ၊ မြေ၊ ရာသီဥတုရှိမည့် ဒေသကို ပဌမဆုံး ရွေးချယ်ရသည်။ စိုက်ပျိုးမည့် ဒေသတွင် မြေသြဇာ ကောင်းမွန်၍ ရေမဝပ်မည့် နေရာမျိုးကို ရွေးချယ်ရသည်။ သစ်သီးခြံ စတင်၍ မပျိုးမီ တနှစ် နှစ်နှစ်ခန့်က ကြိုတင်၍ ပျိုးခင်းများတွင် အပင်များ ပျိုးယူရသည်။ ထိုနောက်မှ စိုက်ပျိုးခင်းများသို့ ပြောင်းရွှေ့ပြီးလျှင် တပင်နှင့်တပင် သင့်တော်သလို ခွာ၍ စိုက်ပျိုးကြရသည်။ ခြံမြေကို မြေသြဇာ ထက်သန်အောင် ပြုလုပ်ရာတွင် အချို့ဒေသများ၌ ကျွဲ နွား ဆိတ် ဝက်များကို ခြံမြေနေရာများ၌ ကျောင်းပေး၍ ယင်းတို့ စွန့်ပစ်သော အညစ်အကြေးများကို မြေသြဇာအဖြစ် အသုံးပြုကြလေသည်။

သစ်သီးပင် စိုက်ပျိုးသည့် နေရာတိုင်း၌ အဖျက်ပိုးများနှင့် မှိုရောဂါများ ကျတတ်ပေရာ ယင်းတို့ကို ဆိုင်ရာစိုက်ပျိုးရေး ပါရဂူများ၏ ညွှန်ကြားချက်အရ သင့်တော်ရာ ဆေးရည်နှင့် ဆေးမှုန့်များဖြင့် ပက်ဖျန်းပေးရသည်။ နိုင်ငံကြီးများရှိ သစ်သီးခြံကြီးများတွင် သစ်သီးစိုက်ပျိုးသူတို့သည် မိမိတို့ခြံမှ ပဌမတန်းစားအသီး ထွက်ရှိနိုင်ရန် ကြိုးစားကြ၍ အဖျက်ပိုးနှင့် ရောဂါများကို ကြိုးစား တိုက်ဖျက်တွန်းလှန်ကြသည်။ ဆေးများ ပက်ဖျန်းရာတွင် ကျောပိုးရသော ဆေးဖျန်း ကရိယာ၊ လက်လှည့်ဆေးဖျန်းစက်၊ သို့မဟုတ် ဆေးဖျန်းအင်ဂျင်စက်ဖြင့် အပင်များကို ဆေးဖျန်းပေးကြသည်။ ခေတ်မှီသော သစ်သီးခြံကြီးများတွင်မူ ဆေးပက်ဖျန်းရန်အတွက် လေယာဉ်ပျံများကိုပင် အသုံးပြုကြလေသည်။

သစ်သီးကောင်းရရှိရေးအတွက် အပင်များကို ဆေးပက်ဖျန်းပေးရသည့်နည်းတူ ဂရုတစိုက် ဆောင်ရွက်ပေးရသော အလုပ်တခုမှာ အပင်မှ အကိုင်းအလက်များကို ချိုင်ပေးရခြင်း ဖြစ်သည်။ စံနစ်တကျ ချိုင်ပေးခြင်းသည် အပင်များကို အားသစ်တက်လာစေသည်။ ညပ်နေသော အကိုင်းအခက်များကြောင့် အသီးနှင့်တကွ အခြားအစိတ်အပိုင်းများသည် လောင်းရိပ်မိနေရာမှ အလင်းရောင်ကို ရရှိနိုင်လာကြသည်။ ဆွေးနေသောအကိုင်းများကို ခုတ်ထွင်ပေးလျှင် စိမ်းလန်းနေသော အခြားအကိုင်းများကို ဆွေးမြေ့လာ

ခြင်းမှ ကာကွယ်ပေးရာ ရောက်သည့်ပြင် အပင်ကို အန္တရာယ်ပြုသည့် ပိုးမွှားတို့၏ အသိုက်အအုံကိုလည်း တပြိုင်တည်း ဖျက်ဆီးပေးသကဲ့သို့ ဖြစ်သည်။ စွန့်ပယ်ထားသော အပင်များကိုပင် စံနစ်တကျ ချိုင်ပေး၍ ကောင်းစွာ ပြုစုပေးပါက အသီးများ ထပ်မံ၍ သီးလာနိုင်လေသည်။

အေးသောဒေသများ၌ သစ်သီးပင်များ၏ဆိုးရွားသော အန္တရာယ်တခုမှာ ဆီးနှင်းပင်ဖြစ်သည်။ ထိုဒေသများတွင် ဆီးနှင်း ကျရောက်မည့် အကြောင်းကို ရေဒီယိုမှ သတင်းကျေညာလိုက်လျှင် ဥယျာဉ်မှူးတို့သည် မိမိတို့၏ အဖိုးတန်အပင်များ မပျက်မစီးရအောင် ကြိုတင်ကာကွယ်မှုများကို ပြုလုပ်ကြရသည်။ အချို့သော သစ်သီးခြံကြီးများတွင် ပိုက်လုံးများကို မြေအောက်၌မြှုပ်၍ အအေးဓာတ်လွန်ကဲသည့် အချိန်တွင် ရေနွေးများလွှတ်ပေးကြရသည်။ အချို့ခြံများတွင်မူ ဆီဖြင့်ဖြစ်စေ၊ ကျောက်မီးသွေးဖြင့်ဖြစ်စေ မီးဖိုပေးကြရသည်။ အပူတိုက်ပေးရသည့်အလုပ်သည် အလွန်စရိတ်ကြီးသော်လည်း ရေရှည်အတွက် ကြည့်လျှင် တွက်သားကိုက်ကြောင်း၊ အပူတိုက်မပေးသည့် ခြံများထက် အမြတ်အစွန်းပိုကြောင်း တွေ့ရလေသည်။

သစ်သီးများကို အချိန်မီဆွတ်ခူးခြင်း၊ စံနစ်တကျကိုင်တွယ်ခြင်းတို့ကို ဆောင်ရွက်နိုင်ပါမှ ယင်းတို့၏ နှစ်လိုဖွယ်အရသာကို အပြည့်အဝ ခံစားနိုင်ကြရသည်။ ဝေးလံသောအရပ်သို့ တင်ပို့ရမည့်သစ်သီးများကို မှည့်စပြုချိန်တွင် ဆွတ်ခူးကြရ၍ ထိုအချိန်တွင် အတန်ငယ် မာနေသေးလင့်ကစား ဈေးသို့ အရောက်တွင် ရောင်းပန်းလှလှနှင့် စားသုံးရန် အဆင်သင့် အခြေအနေ ဖြစ်သွားသည်။ ဆွတ်ခူးစဉ် စိမ်းလွန်းပါကလည်း အရသာ ညှံ့ဖျင်းတတ်၍ မှည့်မှခူးပြန်လျှင်လည်း အမှည့်လွန်ကာ ပုပ်ရိသွားနိုင်သည်။ ထို့ကြောင့် သစ်သီးလုပ်ငန်းကြီးကျယ်သောနိုင်ငံကြီးများတွင် သစ်သီးခူးရန် သင့်မသင့် စမ်းသပ်သော ကရိယာကို အသုံးပြုကြသည်။ သစ်သီးခူးစဉ် အကိုင်အတွယ်ကြမ်းက သစ်သီးပွန်းပြီး ပုပ်သွားနိုင်သဖြင့် အကိုင်အတွယ် သတိထားရသည်။ ခေတ်မီသစ်သီးခြံကြီးများတွင်မူ သီးသန့် တံချူတံများကို အသုံးပြုကြ၍ သစ်သီးကိုင်တွယ်သူများသည် လက်အိတ်စွတ်ထားကြရလေသည်။

သစ်သီးများကို အကောင်းအညံ့ဟူ၍ အမျိုးအစားခွဲခြားထုတ်ရာ၌လည်း ခေတ်မီစံနစ်များ အသုံးပြုကာ အလွန်ဘိုးတက်လာသည်။ သစ်သီးလုပ်ငန်း ကြီးကျယ်သော တိုင်းပြည်ကြီးများတွင် သစ်သီးအမျိုးအစား ခွဲခြားရေး ဥပဒေများကိုပင် ပြဋ္ဌာန်းထားလေသည်။

သစ်သီးများကို ထုပ်ပိုး တင်ပို့ရာ၌လည်း ယခင်ကထက် ဂရုတစိုက် ဆောင်ရွက်ကြရသည်။ သစ်သီးများကို မခူးမီ အပင်ပေါ်၌ ရှိစဉ်က ပိုးသတ်ဆေးများ ပက်ဖျန်းထားသဖြင့် သစ်သီးများကို ထုပ်ပိုးခြင်းမပြုမီ သစ်သီးများကို ဆေးကြောပစ်ရသေးသည်။ နိုင်ငံခြားသို့ တင်ပို့သောအခါ သစ်သီးများကို သဘော်ရှိ အအေးခန်းများ၌ ထည့်၍ ပို့ဆောင်ကြရသည်။ သစ်သီးလုပ်ငန်းကြီးကျယ်သော အချို့တိုင်းပြည်ကြီးများတွင်မူ သစ်သီးတင် အထူးသဘော်ကြီးများကိုပင် အသုံးပြုကြလေသည်။

၁၉၃၃ ခုနှစ် အသီးအနှံထွက် အစီရင်ခံစာအရ မြန်မာနိုင်ငံတွင် သစ်သီးဝလံစိုက်ပျိုးသောကေပေါင်း ၄၄၀,၀၀၀ ရှိသည်ဟု သိရှိရလေသည်။ ယင်းတို့အနက် ၈၂ ရာခိုင်နှုန်းသည် မြန်မာနိုင်ငံအောက်ပိုင်း မိုးများသော ဒေသများတွင် ရှိကြ၍ သစ်သီးအထွက်များဆုံးဒေသသည် တနင်္သာရီတိုင်း ဖြစ်လေသည်။

တနင်္သာရီတိုင်းတွင် သစ်သီးသစ်ပင် အတော်မျိုးစုံစွာပေါက်ရောက် ဖြစ်ထွန်းနိုင်သော ရေ၊ မြေနှင့် ရာသီဥတုရှိပေသည်။ ထိုဒေသမှအဓိကထွက်သော သစ်သီးများမှာ သရက်၊ မင်းကွတ်၊ ဒူးရင်း၊ မရန်း၊ မာလကာ၊ မော်လမြိုင်ကြက်မောက်၊ ငှက်ပျော၊ သီဟိုဠ်သရက်၊ နာနတ်၊ ပိန္နဲ၊ သံပရာ၊ ကျွဲကော၊ ဥသျှစ်တို့ဖြစ်ကြ၍ ပေါင်သီး၊ သကြားသီး၊ လိမ်မော်၊ တောကြက်မောက်၊ ဒူးရင်းဩဇာတို့လည်း အတော်အသင့် ထွက်ရှိလေသည်။

ရေဝတီနှင့် ပဲခူးတိုင်းတို့တွင် တနင်္သာရီတိုင်းလောက် သစ်သီးဝလံစိုက်ပျိုးခြင်း ဖြစ်ထွန်းလေ့မရှိချေ။ ယင်းဒေသတို့မှ အဓိကထွက်သော သစ်သီးများမှာ သရက်၊ မရန်း၊ ငှက်ပျော၊ ပိန္နဲ၊ ရှောက်၊ သံပရာတို့ဖြစ်ကြ၍ မြောင်းမြနှင့် ပုသိမ်ခရိုင်ကမ်းရိုးတန်း ဒေသများတွင် သီဟိုဠ်သရက်ပင်များကိုတွေ့ရသည်။ မိုးပါးသော ပြည်နှင့်သာယာဝတီခရိုင်များမှ ဩဇာသီးနှင့် လိမ်မော်သီးတို့ ထွက်လေသည်။

ရခိုင်တိုင်းသည် တနင်္သာရီတိုင်းနည်းတူ မိုးရေချိန်ရှိ၍ သရက်၊ မရန်း၊ ငှက်ပျော၊ ပိန္နဲ၊ ရှောက်၊ သံပရာတို့အများအပြားထွက်သည်။ တောကြက်မောက်နှင့် သီဟိုဠ်သရက်ပင်တို့ကိုလည်း ရံဖန်ရံခါ တွေ့ရသည်။ သို့သော် သယ်ယူပို့ဆောင်ရေးအခက်အခဲများကြောင့် ပြည်မသို့ တင်ပို့ခြင်း အလွန်တရာနည်းပါးလှပေသည်။

အထက်မြန်မာနိုင်ငံတွင် မိုးအလွန်ပါးသဖြင့် သစ်သီးဝလံ စိုက်ပျိုးရေး မဖြစ်ထွန်းလှချေ။ သို့သော် မြေဩဇာကောင်း၍ ရေသွင်းစိုက်ပျိုးနိုင်သော မန္တလေး၊ ကျောက်ဆည်၊ သရက်မြို့နှင့် မုံရွာ ခရိုင်များတွင်မူ သစ်သီးဝလံအထွက်ကောင်းသည်။ အထက်မြန်မာနိုင်ငံထွက် သစ်သီးဝလံများမှာ သရက်၊ ငှက်ပျော၊ မရန်း၊ ပိန္နဲ၊ သံပရာ၊ ရှောက်၊ သဘော်၊ ဥသျှစ်သီးနှင့် ဆီးသီးတို့ဖြစ်ကြ၍ တည်သီး၊ ဩဇာသီး၊ သဘော်ဩဇာနှင့် စပျစ်သီးတို့လည်း အနည်းအကျဉ်းထွက်သည်။ ဗန်းမော်မြို့အနီး၌ တရုပ်

တည်သီးနှင့် တရုပ်ဆီးသီးခေါ် တရုပ်ကြက်မောက်သီးတို့ ပေါက်ရောက် ဖြစ်ထွန်းလေသည်။

ရှမ်းပြည် နယ်တွင် လိမ်မော်နှင့် စတြော်ဗရီခြံများကို အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်ကြသည်။ ဒုတိယကမ္ဘာစစ်ပြီးခေတ်တွင် ရှမ်းပြည်နယ်၌ သစ်သီးဝလံစိုက်ပျိုးရေးကို ပိုမိုလုပ်ကိုင်လာကြရာ သစ်သော့သီး၊ ရှောက်ချိုသီးများ ပိုမိုထွက်ရှိလာခဲ့လေသည်။

မြန်မာ နိုင်ငံတွင် ရန်ကုန်လူထုသည် သစ်သီးဝလံကို အများဆုံး စားသုံးကြကြောင်း တွေ့ရသည်။ ရန်ကုန်မြို့သို့ တင်ပို့ကြသောသစ်သီးဝလံများနှင့် ထွက်ရှိတင်ပို့ကြသော ဒေသအရပ်ရပ်တို့မှာ အောက်ပါအတိုင်းဖြစ်လေသည်။

ရန်ကုန်မြို့သို့ ရောက်ရှိလာသော ငှက်ပျောသီးတို့သည် ဟင်္သာတနှင့် ပုသိမ်နယ်များ အတွင်းရှိ ယုံသလင်းနှင့် ခမောက်စုတို့မှ တင်ပို့ခြင်းဖြစ်သည်။ မုတ္တမနယ်သည် ငှက်ပျော အထွက်ကောင်းသော်လည်း မှန်မှန် တင်ပို့နိုင်ခြင်း မရှိချေ။ ဖူးကြီး၊ ပျဉ်းမနား၊ တောင်ငူ၊ ရေတာရှည်တို့မှ လည်း တင်ပို့ကြလေသည်။

သရက်သီးသည် ရန်ကုန်ဆင်ခြေဖုံး ဒေသများမှလည်း အများအပြား ထွက်သည်။ မြစ်ငယ်၊ ပျဉ်းမနားနှင့် ကျောက်ဆည် နယ်တို့မှလည်း ရန်ကုန်သို့ တင်ပို့ကြလေ သည်။ ဒုတိယကမ္ဘာစစ်မတိုင်မီခေတ်က ပြည်တွင်းထွက် သရက်များ 'တုံး' ချိန်တွင် မဒရပ်နှင့် ကာလကတ္တားမှ ဗင်္ဂလားသရက်များကို နှစ်စဉ် ကျပ်ငွေ နှစ်သိန်းဖိုးခန့် တင် သွင်းခဲ့လေသည်။ လိမ်မော်သီးများကို သီပေါနှင့် အောင် ပန်း (ရပ်စောက်) တို့မှ တင်ပို့သည်။ ရန်ကုန်မှ တဆင့် မြန်မာနိုင်ငံ အရပ်ရပ်သို့ ဖြန့်ဖြူးရသည်။ သီပေါလိမ်မော် သည် အောင်ပန်းလိမ်မော်ထက် ပို၍ အမျိုးအစားကောင်း သည်။ တောင်ငူခရိုင် တောင်ကုန်းဒေသများနှင့် ရွှေကျင် နယ်မှလည်း လိမ်မော်သီးအနည်းအကျဉ်းထွက်ရှိ၍ ရန်ကုန် သို့ တင်ပို့ကြလေသည်။

ရှောက်၊ သံပရာတို့ကိုမြစ်ငယ်နယ်မှ အများဆုံးတင်ပို့၍ ရွှေကျင်နှင့် မုတ္တမမှ ကျွဲကောနှင့် သံပရာ အတော်အသင့် တင်ပို့သည်။ဒုတိယကမ္ဘာစစ်မတိုင်မီခေတ်က ကျွဲကောသီး များကို မလ္လာယုကျွန်းဆွယ်မှ နှစ်စဉ် တင်သွင်းရလေသည်။

မင်းကွတ်သီးများကို သထုံ၊ မော်လမြိုင်၊ ထားဝယ် စသော တနင်္သာရီတိုင်းရှိ ခရိုင်များမှ တင်ပို့ခြင်း ဖြစ် လေသည်။

ဒူးရင်းသီးများကိုလည်း မော်လမြိုင်၊ သထုံနှင့် ထား ဝယ်တို့မှပင် တင်ပို့ကြလေသည်။

နာနတ်သီးသည် အောက်မြန်မာနိုင်ငံ ဒေသများစွာ၌ အများအပြားထွက်ရှိ၍ ရှမ်းပြည်နယ်၌လည်း အတော် အသင့် စိုက်ပျိုးလုပ်ကိုင်ကြသည်။ မြန်မာနာနတ်မျိုးထက် အလုံးပိုကြီး၍ အရသာပိုကောင်းသော ကျူးနာနတ်မျိုး ကို မော်လမြိုင်ဖက်၌ စတင်စိုက်ပျိုးရာမှ အောက်မြန်မာ နိုင်ငံအချို့အရပ်ဒေသများ၌လည်း တိုးချဲ့စမ်းသပ်စိုက်ပျိုး လျက်ရှိကြသည်။

ရာသီအလိုက် ရန်ကုန်သို့ ရောက်ရှိလာသော အခြား သစ်သီးများမှာ ရမည်းသင်း၊ပြည်နှင့် သာယာဝတီတို့ဖက်မှ လာသော ဉသျှစ်သီးများ၊ ပြည်ခရိုင်မှလာသောသြဇာသီး၊ ကျိုက္ခမီနှင့် သထုံတို့မှလာသော ကြက်မောက်သီးတို့ ဖြစ် ကြသည်။ ဖရဲသီးများကို ပဲခူးနှင့် တောင်ငူဖက်မှရှင်း၊ ဖရုံ သီးများကို ပြည် မီးရထားလမ်းဖက်မှရှင်း တင်ပို့ကြလေ သည်။ အုန်းသီးများကို ထားဝယ်၊ မြိတ်၊ ပုသိမ်၊ စစ်တွေ စသော ကမ်းရိုးတန်းဒေသများနှင့် မြစ်ဝကျွန်းပေါ် မြို့များ မှ တင်ပို့ကြသည်။ ကုန်းကျသော မြို့များအနက် ပျဉ်းမနား နယ်မှသာလျှင် အုန်းသီး အများအပြား တင်ပို့နိုင်သည်။ မြန်မာနိုင်ငံတွင် ပြည်တွင်းထွက်အုန်းများနှင့် မလုံလောက် သဖြင့် စက်ာပူ၊ ကာလကတ္တား၊ မဒရပ်၊ ကိုကိုးကျွန်းတို့မှ လည်း တင်သွင်းခဲ့ရလေသည်။

ပိန္နဲသီးများကို ရန်ကုန် ဆင်ခြေဖုံးဒေသများမှတင်ပို့ကြ သည်။သဘော်သီးသည် နိုင်ငံအရပ်ရပ်၌ထွက်ရှိသော်လည်း သယ်ယူပို့ဆောင်ရန် မလွယ်ကူသဖြင့် နီးစပ်သော မြို့နယ် များမှသာ အနည်းအကျဉ်း တင်ပို့ကြလေသည်။

ဆီးသီးများကို ပြည်မီးရထားလမ်းရှိ မှော်ဇာနှင့် ပုတီး ကုန်းတို့မှရှင်း၊ မန္တလေး မီးရထားလမ်းရှိ ရမည်းသင်း စသော မြို့များမှရှင်း တင်ပို့ကြလေသည်။

ဒုတိယ ကမ္ဘာစစ်ပြီးခေတ်တွင် ရှောက်ချိုသီးများကို အများအပြား စားသုံးလာကြ၍ ယင်းတို့ကို မန္တလေး၊ စစ်ကိုင်း၊ တောင်ငူ၊မော်လမြိုင်၊ စစ်တွေ၊ မှော်ဘီ ခရိုင်များ နှင့် ရှမ်းပြည်နယ်များတွင် အများအပြားစိုက်ပျိုးလုပ်ကိုင် လာကြလေသည်။

မြန်မာနိုင်ငံ၌ သစ်သီးများကိုပို့ဆောင်ပုံမှာ သြဇာသီး၊ လိမ်မော်သီး စသည်များကို ခြင်းနှင့်ထည့်သိုပို့သည်မှလွဲ၍ အခြားအသီးနှံအများကို များသောအားဖြင့် လှည်းများ လော်ရီကားများပေါ်၌ ယိုင်ပတ်များကာပြီးလျှင် စုပုံပို့ ဆောင်ခြင်းဖြစ်သည်။ ထို့ကြောင့် သစ်သီးများသည် ရန် ကုန်အရောက်တွင် ၁၅ ရာခိုင်နှုန်းခန့် ပုပ်ရိ ပျက်စီးကြရ လေသည်။

သစ်သီးဝလံစိုက်ပျိုးရေးတွင်လည်း အထူးသဖြင့်အထက် မြန်မာနိုင်ငံ၌ မန္တလေးနှင့် ကျောက်ဆည် ခရိုင်တို့တွင် သရက်နှင့် ငှက်ပျောဉယျာဉ်များကိုရှင်း၊ အောက်မြန်မာ နိုင်ငံအချို့မြို့ကြီးများ အနီးအနားမှ ဉယျာဉ်များကိုရှင်း၊ ရှမ်းပြည်နယ်၌ လိမ်မော်၊ စတြော်ဗရီနှင့် သစ်သော့များကို ရှင်း စံနစ်တကျ အကွက်ချ၍ စိုက်ပျိုးသည်မှလွဲ၍ စိုက်ပျိုး

ပြုစုပုံစံနစ်များသည် ခေတ်မမှီလှသေးချေ။ အခြား အရပ်ဒေသများတွင် သရက်ခြံ၊ မရန်းခြံများသည်လည်း အခြားအပင်များပါ ရောနှောပေါက်သော ခြံဥယျာဉ်များ ဖြစ်ကြ၍ အပင်များကျန်းမာသန်စွမ်းကာ အသီးထွက်များအောင် မြေတောင်မြှောက်ပေးခြင်း၊ အကိုင်းအခက် ချိုင်ပေးခြင်းတို့ကို ဆောင်ရွက်ခဲလှသည်။ အသီး မျိုးကောင်းရရန် ဆောင်ရွက်ခြင်းလည်း မရှိကြပဲ အပင်မှသီးသမျှကို ဆွတ်ခူး စားသုံး ရောင်းဝယ်ဖောက်ကားခြင်းကိုသာ ပြုခဲ့ကြလေသည်။

ဒုတိယကမ္ဘာစစ်ပြီးခေတ်တွင်မူသစ်သီးဝလံစိုက်ပျိုးရေးကို ပြည်ပိုင်အစိုးရများက ဦးဆောင် အားပေးခြင်းပြုလာသည်။ သစ်သီးအမျိုးအမည် တိုးချဲ့စိုက်ပျိုးရေးကိုလည်း ဆောင်ရွက်လာသည်။ ရှမ်းပြည်နယ်တွင် သစ်သော့ခြံများကို တိုးချဲ့လုပ်ကိုင်လာကြ၍ ကချင်ပြည်နယ်၊ ချင်းတောင်တန်းဒေသတို့၌လည်း စမ်းသပ်စိုက်ပျိုး အောင်မြင်လျက်ရှိသည်။ ပုပ္ပားတောင်တဝိုက် ဒေသများ၌ မျိုးကောင်းလိမ်မော်၊ သစ်သော့၊ စပျစ်၊ ပန်းသီးတို့ကို စမ်းသပ်စိုက်ပျိုးအောင်မြင်လျက်ရှိ၍ ပြည်တွင်းသုံး လုံလောက်အောင် ချဲ့ထွင်စိုက်ပျိုးသွားရန် ဆောင်ရွက်လျက် ရှိလေသည်။ သရက်၊ နာနတ် စသည်တို့ စည်သွတ်ခြင်း၊ အဖျော်ယမကာ ပြုခြင်းတို့ကိုလည်း အောင်မြင်စွာ ထုတ်လုပ်နိုင်လာပေပြီ။

ကမ္ဘာ့အရပ်ရပ်တွင် သစ်သီးလုပ်ငန်းသည် ရှေးကထက် အဆပေါင်းများစွာ တိုးတက်လာခဲ့သည်ဆိုသော အချက်ကိုကား မည်သူမျှ မငြင်းနိုင်ပေ။ ရှေးက အနောက်နိုင်ငံများတွင် ဆောင်းရာသီ၌ ပန်းသီးမှလွဲ၍ အခြားသစ်သီးဝလံကို မစားကြရချေ။ ငှက်ပျောသီးသည်လည်း အလွန်ရှားပါး၍ မြို့ကြီးများ၌သာ ရနိုင်ခဲ့သည်။ လွန်ခဲ့သောအနှစ် သုံးလေးဆယ်ခန့်တိုင်အောင် စပျစ်သီးသည် မြန်မာနိုင်ငံတွင် အမြင် အတွေ့ရ နည်းပါးပြီးလျှင် အလွန် အဖိုးတန်၍ မင်းသုံး သဌေးသုံး သစ်သီးမျိုးဖြစ်ခဲ့သည်။ ယခုအခါတွင်မူ အနောက်တိုင်းထွက် သစ်သီး ဝလံများကို အရှေ့တိုင်းများ၌ အလွယ်တကူ ဝယ်ယူ ရရှိနိုင်ပြီးလျှင် အရှေ့တိုင်းထွက်သရက်သီး၊မင်းကွတ်သီးတို့သည်လည်း အနောက်နိုင်ငံများသို့ ပေါက်ရောက် ကျော်ကြားလျက် ရှိပေသည်။

**သစ်သော့ပင်။** ။သစ်သော့ပင်သည် ပန်းသီး၊ မက်မွန်၊ မက်မန်း၊ ဆီး စသော အပင်များနှင့် မျိုးရင်းတူ ဖြစ်သည်။ ယင်းကို အသီး အလို့ငှာ သမပိုင်း ဒေသများတွင် အကြီးအကျယ် စိုက်ပျိုး လုပ်ကိုင်ကြသည်။ သမပိုင်း ဒေသထွက် သစ်သီး သစ်ဖုများအနက် သစ်သော့သီးသည် ထိပ်တန်းထားရသော အသီးများတွင် ပါဝင်သည်။ ကမ္ဘာနှင့် ချီ၍



သစ်သော့သီးအမျိုးမျိုး

လူသိများပြား ထင်ရှားမှုတွင် ပန်းသီးမှ လွဲလျှင် သစ်သော့သီးသည် အကျော်ကြားဆုံး ဖြစ်လေသည်။

ရုက္ခဗေဒ အလိုအားဖြင့်၎င်း၊ စိုက်ပျိုး ပြုစုရေးတွင်၎င်း သစ်သော့ပင်နှင့် ပန်းသီးပင်တို့သည် အလွန်နီးစပ်၍ ဆင်တူမှု များစွာ ရှိသည်။ သို့သော် ခြားနားချက်များလည်း ရှိသဖြင့်သာ တမျိုးစီ ခွဲခြား နိုင်ခဲ့သည်။ ခြားနားချက်တခုမှာ သစ်သော့သီး၏ အတွင်းသားသည် ပန်းသီး အသားကဲ့သို့ မွမွကလေး မနေပဲ ပြုတ်ရှပ်ရှပ် နေသည်။ သစ်သော့ပွင့်၏ ပန်းကညစ်တို့သည် အရင်းပိုင်း၌ သီးသီးခြားခြား ဖြစ်သည်။ ပန်းသီးပွင့်တွင်မူ စုပေါင်း နေသည်။ ပုံပန်းသဏ္ဌာန်သည်လည်း ယေဘုယျအားဖြင့် ခြားနားသည်။ သစ်သော့သီးသည် ထိပ်ချွန်၍ အောက်ပိုင်း ကားသည်။ သို့သော် ပန်းသီးကဲ့သို့ လုံးဝန်းသော သစ်သော့သီးများလည်း ရှိပေသေးသည်။ ထူးခြားချက် တခုမှာ ထိုအပင်နှစ်မျိုးကို မျိုးစပ်လျှင်မူ မအောင်မြင်ပေ။ ထိုနှစ်မျိုးကို စပ်ထားသော ကပြားပင်သည် အသက် မရှည်ကြောင်း တွေ့ရလေသည်။

သစ်သော့သီးသည် ပန်းသီး၊ မက်မွန်သီးတို့ကဲ့သို့ ရိုဇေစီအီး မျိုးရင်းတွင် ပါဝင်သည်။ မျိုးခွဲအမည်သည် ပိုင်းရပ်ဖြစ်၍ ပိုင်းရပ် အမည်ခံသော မျိုးစိတ် ၁၂ ခုမှ ၂၀ ကျော်ခန့် အထိ ရှိရာ ဥရောပတိုက် အလယ်ပိုင်းဒေသမှ တရုပ်

နိုင်ငံ တိုင်အောင် သမပိုင်းများ၌ မူလ ပေါက်ရောက်သော မျိုးစိတ်များ ဖြစ်ကြသည်။ ထိုမျိုးစိတ်များမှ တဖန် မျိုးစိတ် ကွဲပေါင်း ရာနှင့် ထောင်နှင့် ချီ၍ပင် ရှိပေသေးသည်။

အမျိုးအစား အကောင်းဆုံးသော သစ်သော့ မျိုးစိတ်၏ ရုက္ခဗေဒ အမည်သည် ပိုင်းရပ် ကွန်မျူနစ် ဖြစ်၍ ဥရောပ အရှေ့တောင်ပိုင်းနှင့် အာရှတိုက် အနောက်ပိုင်း၌ မူလ ပေါက်ရောက်သည်။ ထိုမျိုးစိတ်၏ နာမည်ကျော်ကြား ထင်ရှားသော မျိုးကွဲတခုကို ဗတ်တလက်ဟု ခေါ်သည်။ ထိုမျိုးစိတ်ကွဲဝင် သစ်သော့သီးများသည် အသား နူးညက်၍ အရသာ ချိုမြသည်။ ချိုချဉ် သစ်သီးပွဲတွင် ထိပ်တန်းထားရသော သစ်သီးများတွင် ပါဝင်လေသည်။ မျိုးစိတ်အမည်ဖြင့် ပိုင်းရပ် နီဗာလစ်ဟု ခေါ်သော နှင်း သစ်သော့ပင်တို့ကို ပယ်ရီနှင့် ဆိုက်ဒါခေါ် သစ်သော့သီးဖြင့် ဖောက်သော အရက်မျိုးများ ပြုလုပ်ရန် ဥရောပတိုက်၌ စိုက်ပျိုးကြသည်။ ပိုင်းရပ် ပိုင်ရီဖောလီးယားဟု ခေါ်သော သစ်သော့ မျိုးသည် အရှေ့တိုင်း သစ်သော့မျိုးများမှ မျိုးစိတ်ပွားခဲ့သော အပင်မျိုး ဖြစ်သည်။ ယင်းသည် အသား ကြမ်း၍ အရသာ မကောင်းလှချေ။ တရုပ် သဲသစ်သော့သီးဟုလည်း ခေါ်သည်။ အရှေ့တိုင်း သစ်သော့မျိုးသည် အနောက်တိုင်း သစ်သော့မျိုးလောက် အမျိုးအစား မကောင်းချေ။

အထက်တွင် ဆိုခဲ့သည့် အတိုင်း မျိုးစိတ်ကွဲ အများအပြား ရှိရာ ယင်းတို့သည် မျိုးစိတ် နှစ်ခုကို မျိုးစပ်ထားခြင်းများ ဖြစ်သည်။ ပုံစံအားဖြင့် တရုပ် သစ်သော့မျိုးသည် အရသာ မကောင်းသဖြင့် အနောက်တိုင်း၊သို့မဟုတ် ဥရောပ သစ်သော့မျိုးနှင့် မျိုးစပ်ရသည်။ ယင်းသို့ မျိုးစပ်ယူသော မျိုးစိတ်ကွဲများ အနက် ကိုက်ဖာ သစ်သော့မျိုးသည် ကျော်ကြားသော အမျိုးအစား ဖြစ်လေသည်။

မြန်မာနိုင်ငံ ရှမ်းပြည် မြောက်ပိုင်းနှင့် တောင်ပိုင်းတွင် သစ်သော့ခြံများကို စိုက်ပျိုး လုပ်ကိုင်ကြသည်။ အထူးသဖြင့် မေမြို့၊ တောင်ကြီး၊ ကလော၊ အောင်ပန်း၊ ရပ်စောက် စသော နယ်များမှ ပြည်မသို့ သစ်သော့သီး အများအပြား တင်ပို့လျက် ရှိသည်။ သို့သော် အရှေ့တိုင်း သစ်သော့ မျိုးသာ စိုက်ပျိုး ဖြစ်ထွန်းသေးသဖြင့် အမျိုးအစား မကောင်းလှချေ။ မြန်မာနိုင်ငံကို ဗြိတိသျှ အစိုးရ သိမ်းပိုက်ပြီးနောက် ၁၈၉၃ ခုနှစ်မှ စ၍ ဗြိတိသျှ အစိုးရသည် သစ်သော့ မျိုးကောင်းများကို မြန်မာနိုင်ငံ ရှမ်းပြည်နယ်၌ စမ်းသပ် စိုက်ပျိုးခဲ့သည်။ သို့သော် ရေမြေသင့်ဟန် မတူ၍ အောင်မြင် ဖြစ်ထွန်းခြင်း မရှိခဲ့ချေ။

သစ်သော့ပင်သည် အလတ်စား အပင်မျိုး ဖြစ်သည်။ ပင်စည် ချောမွတ်သည်။ ရွက်ကြွေပင်မျိုးတွင် ပါဝင်သည်။ အကိုင်းအလက်တို့သည် အပေါ်သို့ ထောင်၍ ထွက်ကြပြီးလျှင် အပင် အနေအထား လှပလေသည်။ အရွက်တို့သည် ထိပ်ချွန်သော ဘဲဥပုံမျိုး ဖြစ်သည်။ အရွက်အနားသည် ကြာယပ်စိပ်ကလေးများ ဖြစ်နေသည်။အပွင့်တို့သည် အဖြူရောင် ဖြစ်၍ အရင်း သွယ်ပြီးလျှင် ထိပ်ဝိုင်းသော ပွင့်ချပ် ငါးခု ပါရှိလေသည်။

သစ်သော့သီးသည် ချောမွတ်၍ ပါးလွှာသော အခွံ ရှိသည်။ သို့သော် ပန်းသီး၏ အခွံလောက် ချောမွတ်တောက်ပြောင်ခြင်း မရှိပေ။ အခွံရောင်သည် အဝါရောင်၊ ဇော်ဂျီရောင်၊ သို့မဟုတ် အနီရောင်လည်း ရှိသည်။ ပြည်ထောင်စု မြန်မာနိုင်ငံ၊ ရှမ်းပြည်နယ်ထွက် သစ်သော့သီးများသည် အာလူးရောင်ကဲ့သို့ ဝါညိုညိုနှင့် စိမ်းဝါဝါအရောင်များ ဖြစ်ကြသည်။အသီး၏အသားသည် ဖြူ၍ အရည်ရွှမ်းပြီးလျှင် ချိုမြမြ အရသာ ရှိသည်။ အသား ညက်သည်ဟု ဆိုရသော်လည်း မာကျော၍ ကြမ်းသော ဆဲများ ပါရှိသဖြင့် အသီးကိုကိုက်စားသည့်အခါ ပြွတ်ရှပ်ရှပ်၊ ကြွပ်ဆတ်ဆတ် နေသယောင်ရှိသည်။ အသီး၏ အလယ် အူတိုင်ထဲတွင် အစေ့ ဆယ်စေ့ထက် မနည်း ပါရှိသည်။ အမျိုးအစားကိုလိုက်၍အသီးအသား အနုအညက်၊ပုံပန်းသဏ္ဍာန်၊ အရောင် အသွေး၊ အရသာနှင့် အသီးမှည့်ချိန်တို့ ကွဲပြားလေသည်။အနောက်တိုင်းသစ်သော့မျိုးတို့သည် အရှေ့တိုင်း သစ်သော့မျိုးတို့ထက် အရသာ ပို၍ ကောင်းသော်လည်း အရှေ့တိုင်း မျိုးလောက် အပင်ရောဂါများကို ခံနိုင်ရည် မရှိပေ။ ပန်းသီး၊ မက်မွန်၊ မက်မန်း၊ ဆီး စသော မျိုးရင်းတူ အခြားအပင်များနှင့် နှိုင်းစာလျှင် သစ်သော့သည် ပြင်းထန်သော ဆောင်းရာသီ၏ ဒဏ်ကိုလည်း မခံနိုင်ချေ။ သို့သော် အေးမြသည့် ဆောင်းရာသီ ဥတုမျိုးကိုလည်း အတော်အသင့် လိုသည်။ အီကွေတာမှ မြောက်နှင့်တောင် လတ္တီတွဒ် ၂၅ ဒီဂရီအတွင်း၌ ရှိပြီးလျှင် ရာသီဥတု တနှစ်ပတ်လုံး အေးသည့် ဒေသမျိုး၌ပင် သစ်သော့ပင်များ မပေါက်ရောက်ပေ။ ယင်းတို့သည် ရေဆင်းကောင်း၍ အမြစ်နက်နက် တွယ်နိုင်သော မြေမျိုး၌ ဖြစ်ထွန်းသည်။ မြေစေးများသော မြေမျိုးတွင် သစ်သော့ပင်သည် ပန်းသီး၊ မက်မွန်၊ စပျစ်ပင်တို့ထက် ပို၍ အောင်မြင်ဖြစ်ထွန်းသည်။

သစ်သော့ပင်များကို ပန်းသီး၊ မက်မွန် စသော အခြား မျိုးရင်းတူ အပင်များကဲ့သို့ပင် အစေ့ ပျိုး၍လည်း စိုက်နိုင်သည်။ သို့သော် ကိုင်းကူးစိုက်နည်းသည် ပို၍ အောင်မြင်ဖြစ်ထွန်းနိုင်သည်။ အပင်များ ကြီးထွားနေစဉ် အတွင်း အကိုင်းအလက်များကို ချိုင်ချပေးရန် လိုအပ်သည်။ ကြီးထွားပြီး နောက်တွင်လည်း နှစ်စဉ် အကိုင်းများ ရှင်းလင်းချိုင်ချပေးမှသာလျှင် အသီးထွက် ကောင်းလေသည်။

ကမ္ဘာပေါ်တွင် သစ်သော့ပင် စိုက်ပျိုးရေးကို ဥရောပတိုက်သည် အမေရိကတိုက်ထက် ပို၍ ကြီးကြီးကျယ်ကျယ်

လုပ်ကိုင်သည်။ ဥရောပ နိုင်ငံများ အနက် ပြင်သစ်နိုင်ငံသည် သစ်သေ့သီး အထွက် အများဆုံး ဖြစ်သည်။ ဒုတိယသည် ဂျာမနီနိုင်ငံဖြစ်၍ ယင်းတို့နောက် အစဉ်လိုက်အားဖြင့် ဆွစ်ဇာလန်၊ ဣတလီနှင့် ဗော်လကန်နိုင်ငံများ ဖြစ်ကြသည်။ သစ်သေ့သီး အများအပြား ထွက်သော အခြားကမ္ဘာ့နိုင်ငံများမှာ ဂျပန်၊ တောင်အာဖရိက ပြည်ထောင်စု၊ ဩစတြေးလီးယား၊ နယူးဇီလန်၊ ချီလီ၊ အာဂျင်တီးနားနှင့် ကနေဒါနိုင်ငံများ ဖြစ်ကြလေသည်။

သစ်သေ့ပင်သည် မည်သည့် ခေတ်ကာလမှ စတင်ပေါ်ပေါက်ခဲ့သည်ကို အတိအကျ မမှန်းဆနိုင်ခဲ့ပေ။ ခရစ်မပေါ်မီ ဆယ်ရာစု နှစ်လောက်က ပေါ်ထွန်းခဲ့သော ဂရိစာဆိုကြီး ဟိုးမား၏ စာပေတွင် သစ်သေ့သီးအကြောင်းကို ဖော်ပြခဲ့သည်။ ထိုကြောင့် ထိုခေတ်က ဂရိနိုင်ငံတွင် သစ်သေ့သီး ရှိခဲ့သည်ဟု ယူဆရသည်။ ရောမ စာဆိုကြီး ပတ်ဗလိယတ် ဆိုင်းရပ်၏ စာပေတို့တွင်လည်း သစ်သေ့သီးအကြောင်း ပါသဖြင့် ရှေး ရောမတို့သည်လည်း သစ်သေ့သီးကို စားသုံးခဲ့ကြသည်ဟု သိရသည်။ ထိုကြောင့် သစ်သေ့ပင်သည် ခရစ်မပေါ်မီ ရာစု နှစ်ပေါင်း များစွာကပင် ရှိခဲ့သည်ဟု မှန်းဆရလေသည်။

**သစ်ဥ။** ။မြန်မာ ဝေါဟာရအားဖြင့် သစ်ဥဟု ခေါ်သော်လည်း ယင်းတို့သည် သစ်ပင်များတွင် တွေ့ရသော အင်္ဂါအစိတ်အပိုင်း တရပ် မဟုတ်ချေ။ ယင်းတို့ကို အပင်ပျော့များ၌သာ တွေ့ရရာ အထူးသဖြင့် ရွက်ထီးပင်ပျော့မျိုး၌ ပို၍ တွေ့ရသည်။ ဥများသည် စင်စစ် မြေငုပ် အဖူးအတက်တမျိုး ဖြစ်၍ မြေငုပ် ပင်စည်မျိုးတွင် ပါဝင်လေသည်။ များသောအားဖြင့် ယင်းဥတို့သည် လုံးဝန်းသော ပုံသဏ္ဌာန် ရှိသည်။ ရုက္ခဗေဒ အရ ဆိုလျှင် သစ်ဥတို့ကို ဗဗအတက်များဟု ခေါ်ဝေါ် သုံးနှုန်းလေသည်။

သစ်ဥတွင် ပင်စည်တုတ်တို ရှိ၍ ထိုပင်စည်ကို အသားထူသော အရွက်များက ဖုံးအုပ်ထားကြရာ ထို အရွက်ဖတ်များတွင် အပင်စာ၊ သို့မဟုတ် အစာသြဇာဓာတ် အပြည့်အစုံ ရှိသည်။ ထင်ရှား သိသာလွယ်သော ပုံစံတခုကို ညွှန်ပြရလျှင် ကြက်သွန်နီဥကို ညွှန်ပြရပေမည်။

သစ်စေ့ကဲ့သို့ပင် သစ်ဥတွင် နောင် အပင်သစ် ဖြစ်လာမည့် အပင်လောင်း၏ အရွက်၊ ပွင့်တံ စသည့် အင်္ဂါအစိတ်အပိုင်းများ အပြည့်အစုံ ပါရှိသည်။ အစေ့မှ အပင်ပေါက်ခြင်းထက် ဥမှ အပင်ပေါက်ခြင်းသည် ပို၍ လျင်မြန်သည်။ အကြောင်းမူ သစ်ဥတွင် အပင်သစ်ပေါက်နိုင်ရန် အပင်စာ အလုံအလောက် သိုလှောင် ထားရှိပြီးသောကြောင့် ဖြစ်ပေသည်။

အချို့ သစ်ဥများသည် ကြက်သွန်ဥ၊ ဟိုင်းယားဆင့်



ကရိုးကပ်ပင်၏ဥ

(မြေပေါက်ဗေဒါမျိုး) ဥတို့ကဲ့သို့ အသားထူသော အလွှာများ၊ အထပ်များဖြင့် ပြီး၍ ယင်းတို့၏ အတွင်းထဲ၌ အပင်လောင်း၏ အစိတ်အပိုင်းများ ရှိသည်။ အပေါ်ဆုံးလွှာသည် စက္ကူသဖွယ်အလွန်ပါးလှပ်၍ ယင်းသည် တလွှာတည်းဖြင့် ဥတခုလုံးကို ရစ်ပတ် လွှမ်းခြုံထားသည်။ ကြက်သွန်နီ ဥကြီးတွင် ထိုအလွှာကို ကြက်သွန်မြေးဟု ခေါ်သည်။ လီလီ ပန်းပင်၏ ဥကဲ့သို့သော အချို့ဥများ၏ အပေါ်ယံ အလွှာသည် တခုတည်း မဟုတ်ချေ။ ငါးအကြေးခွံကဲ့သို့ အဆင့်ဆင့် ရှိလေသည်။ နနွင်းတက်ကဲ့သို့ အချို့ဥများတွင် အပေါ်လွှာသည် အသားနှင့် ကပ်လျက် တပြင်တည်း ရှိ၍ အတွင်းသားသည်လည်း တလုံးတခဲတည်း ကျစ်ကျစ်လျစ်လျစ် ဖြစ်လေသည်။

သင့်လျော်သော ကာလ ဒေသတွင် လိုအပ်သော ရေမြေပေး၍ မြေကြီး၌ ထိုဥများကို ချစိုက်ကြည့်လျှင် ဥ၏ အောက်ဖက်မှ အမြစ်များ ထွက်လာသည်ကို တွေ့ရလိမ့်မည်။ အစို့များမှာမူ ဥ၏အလယ်ဗဟိုမှ ထွက်သည်။ ထိုအဖို့များတွင် ပင်စည် အရွက်နှင့်အပွင့်တို့ ပါလာလေသည်။

နာဆစ်ဆပ် ပန်းပင်၊ ဒက်ဖိုဒီး ပန်းပင်တို့၏ ဥများသည် မိမိတို့၌ အရွက်နှင့် အပွင့်များ ပေါ်ထွက်ရန် အစာသြဇာဓာတ် ရိက္ခာ အပြည့်အစုံ ပါရှိသည်။ ထိုကြောင့် ထိုပန်းပင်

မျိုးတို့ကို အိုးများထဲတွင် ရေနှင့် ကျောက်ခဲများ ထည့်ကာ အိမ်တွင်း၌ပင် စိုက်ပျိုးနိုင်လေသည်။

မြေငုပ်ပင်စည်ရှိသော အပင်မျိုးတို့သည် အပင်စာ ဩဇာဓာတ်များကို ဥများ၊ အတက်များအားဖြင့် သိုလှောင်ထားနိုင်ကြသဖြင့် ကာလရှည်လျား၍ ချမ်းအေးလွန်းသော ဆောင်းရာသီ၏ ဒဏ်ကို ခံနိုင်ရည် ရှိကြသည်။ ထိုကြောင့် ထို ရာသီဥတုမျိုးရှိသော ဒေသများ၌ ထိုအပင်မျိုးတို့ကို တွေ့ကြရသည်။

ဥမှ ပေါက်သော အပင်တို့သည်မူ ပင်မကြီးနှင့် တပုံစံတည်းပင် ပေါက်သည်။ အချို့ဥများမှ ပေါက်သော အပွင့်တို့သည် အလွန်လှပ၍ သင်းပျံ့ပျံ့ ယနံ့လည်း ရှိသည်။ တျူးလစ်တို့သည် သစ်ဥမှ ပေါက်သော ပန်းပင်မျိုး ဖြစ်ကြသည်။ သစ္စာပန်းတို့သည် ကွမ်းအတက်များမှ ပေါက်သည်။ မြေငုပ်ပင်စည်မျိုးချင်း တူသော်လည်း ဗဗ်အတက်နှင့် ကွမ်းအတက်တို့၏ ခြားနားချက်ကား ကွမ်းအတက်တွင် အရွက်လောင်း မပါချေ။ ဗဗ်သည် နှစ်ကြာကြာ ခံသော်လည်း ကွမ်းသည် တနှစ်သာခံ၍ အသစ် ပြန်၍ပြန်၍ အတက်သစ် ထွက်လေသည်။



သစ်အယ်ပင်၏ အသီးနှင့်အရွက်များ

**သစ်အယ်ပင်။** ။သစ်အယ်ပင်သည် မျိုးခွဲ မျိုးစိတ်များ ပြားသော သစ်ပင်မျိုး ဖြစ်သည်။ ကမ္ဘာ့ အရပ်ရပ်ရှိ သမပိုင်းဇုန်၌ပေါက်ရောက်သော သစ်အယ်ပင်အမျိုးမျိုးတို့ အနက် ကောင်းစွာ စားသုံးရန် အဆန်ရရှိသော သစ်အယ်ပင် လေးမျိုးမှာ ကက်စတာနီးယား မျိုးခွဲဝင်များဖြစ်ကြ၍ ရုက္ခဗေဒ အမည်ဖြင့်(၁) ကက်စတာနီးယား ဆက်တီဗာဟုခေါ်သော ဥရောပ(စပိန်)သစ်အယ်မျိုး၊ (၂) ကက်စတာနီးယား ဒင်တေးတာဟု ခေါ်သော အမေရိကန် သစ်အယ်မျိုး၊ (၃) ကက်စတာနီးယား ကရီနေတာဟု ခေါ်သော ဂျပန် သစ်အယ်မျိုး၊ (၄) ကက်စတာနီးယား မောလစ်ဆီမာဟု ခေါ်သော တရုပ် သစ်အယ်မျိုးတို့ ဖြစ်ကြသည်။ ထိုသစ်အယ်မျိုးတို့သည် အသီး၏ အစေ့ဆန်ကိုလည်း စားရ၍ သစ်သားကိုလည်း အသုံးပြုနိုင်ပြီးလျှင် အခေါက်သည် သားရေနယ် လုပ်ငန်းအတွက် အသုံး ဝင်သောကြောင့် စီးပွားရေး အမြင်အားဖြင့် အဖိုးတန် သစ်ပင်မျိုး ဖြစ်လေသည်။

သစ်အယ်ပင်တို့သည် ရွက်ကြွေပင်မျိုး ဖြစ်သည်။ ဝက်သစ်ချပင်မျိုးတို့နှင့် မျိုးတူဖြစ်၍ ဖဂေးစီအီး မျိုးရင်းတွင် ပါဝင်သည်။ သစ်အယ်ပင်တို့မှ သေးသွယ် ရှည်လျား၍ ကြောင်မြီးနှင့်တူသော အဝါရောင် ပွင့်တံမျိုး ထွက်သည်။ ကြောင်မြီး ပွင့်တံ နှစ်မျိုးပွင့်ရာ တမျိုးတွင် ပွင့်တံတခုလုံး၌ အဖိုပွင့်ချည်းပါသည်။ အခြားတမျိုး၌မူ ပွင့်တံ၏အပေါ်ပိုင်းတွင် အဖိုပွင့်များ ပွင့်၍ အောက်ခြေတွင် အမပွင့်များ ပွင့်သည်။ အမပွင့်များသည် ဆူးကဲ့သို့သော အမွေးများ ထူထပ်စွာပါရှိသည့်အသီးမျိုးအဖြစ် ကြီးထွားလာကြသည်။ အသီးအတွင်း၌ လုံးဝန်းသော အဆန်ချောင်တစေ့သီးတခုမှ သုံးခုအထိ ပါရှိတတ်၍၊ အချို့အမျိုးများတွင် တဆန်သာ အဖတ်တင်လေ့ရှိသည်။ ယင်းသို့ တဆန်သာ အဖတ်တင်သော အမျိုးများမှာ အဆန် စားသုံးရန်အတွက် ကောင်းမွန်သော အမျိုးများ ဖြစ်သည်။

အရွက်များသည် အစိမ်းရင့်ရောင် ဖြစ်ပြီးလျှင် ပြောင်လက်နေသည်။ ရှည်ဝိုင်းဝိုင်း ပုံသဏ္ဌာန်ရှိပြီးလျှင် အရင်းကြီး၍ အဖျားသွယ်သည်။ အရွက်နားတွင် လွှသွား ခပ်ကျဲကျဲကဲ့သို့ ချွန်မြသော အသွား ရှိသည်။ အကြောများ ထင်ရှားသည်။ အခေါက်များသည် အမြောင်း အမြောင်း ထင်ရှားနေသည်။

သစ်အယ်ပင်တို့သည် ရောဂါအမျိုးမျိုးကြောင့် အပင်ညှိုးနွမ်း ခြောက်သွေ့သာ၍ ဖြစ်စေ၊ သစ်သား အသုံး်ငှာ ဖြစ်စေ ပင်စည်ကို လှဲဖြတ်ချလိုက်လျှင် ငုတ်ဘက်အပေါက်မြန်သော အပင်မျိုးဖြစ်သည်။ သစ်အယ်သားကို ဝက်သစ်ချသားကဲ့သို့ပင် အသုံးပြုနိုင်ပေသည်။ များသော အားဖြင့် ထင်းအလို့ငှာ အသုံးပြုကြသည်။ အသား ကောင်းသော သစ်အယ်သားများကို တယ်လီဖုံးတိုင်၊ ခြံဝင်းတိုင်နှင့်အချို့ အဆောက် အအုံများ ဆောက်လုပ်ရာတွင် အသုံးပြုကြသည်။ သစ်ကြော ကျစ်လျစ် သိပ်သည်းခြင်း မရှိသဖြင့်

အရောင်တင်၍ မလှသော်လည်း နေအိမ် အဆောက်အအုံ အတွင်းဖက် ကျသော နေရာများတွင် သစ်အယ်သားကို ထည့်၍သုံးကြသည်။ သစ်အယ်သားသည် လေဒဏ် မိုးဒဏ် ကြောင့်၎င်း၊ မြေကြီးနှင့် အစဉ်ထိနေသောကြောင့်၎င်း ဆွေးမြည့်ပျက်စီး လွယ်ခြင်း မရှိခြင်းသည် ယင်း၏ ထူးခြားသော ဝိသေသဂုဏ်တရပ် ဖြစ်လေသည်။

သစ်အယ်ပင် တို့သည် မြေပွ၍ ရေစိမ့်လွယ်ပြီးလျှင် ခြောက်သွေ့သော မြေမျိုး၌ ဖြစ်ထွန်းသည်။အမြစ်ခိုင်သော အပင်မျိုးလည်း ဖြစ်သည်။ အစေ့မှ အပင် ပျိုးယူနိုင်သည်။ ပျိုးခင်းမှ နေရာရွှေ့ပြောင်းစိုက်သော တနှစ်မှ သုံးနှစ်သား အပင်များသည် မိုးခေါင်သည့် ကာလနှင့် ကြုံကိုက်လျှင် သေသွားတတ်သော်လည်း များသောအားဖြင့် ပျိုးပင်များသည် ရှင်သန်သည်သာ များသည်။ ယင်းတို့သည် မြေကြီးတွင် တော်ရုံအစိုဓါတ် ရရုံနှင့် ရှင်သန်နိုင်သည်။ သစ်အယ်ပင်များသည် ကမ္ဘာ့မြောက်ဖက်ပိုင်း သမပိုင်းဇုန်၌ ပင်လယ်နှင့်ဝေးကွာ၍ ရာသီဥတု မပြင်းထန်လှသော ဒေသများ၌ ပေါက်ရောက်သည်။ အကြမ်းဖြင်းအားဖြင့် ဥရောပတိုက်နှင့် အမေရိကတိုက်တို့တွင် မြေပြင် အမြင့်ပေ ၄,၀၀၀ ကျော်၌ ၎င်း၊ ဂျပန်နိုင်ငံ၌ ပေ ၃,၀၀၀ ကျော်၌၎င်း၊ တရုပ်နိုင်ငံတွင် ပေ ၈,၀၀၀ ကျော်၌၎င်း မပေါက်ရောက်ချေ။

မြေထဲပင်လယ်ဒေသ၌ ပေါက်ရောက်သော ဥရောပ သစ်အယ် မျိုးနှင့် မြောက် အမေရိကတိုက် အရှေ့ပိုင်း၌ ပေါက်ရောက်သော အမေရိကန် သစ်အယ်မျိုး တို့သည် သစ်ပင်ကြီးများဖြစ်သည်။ ဂျပန် သစ်အယ်မျိုးမှာမူ သစ်ပင်ငယ်များ ဖြစ်လေသည်။

ကုန်သွယ်စီးပွားရေး လောက၌ တန်ဖိုးအရှိဆုံးသည် ဥရောပ သစ်အယ်မျိုး ဖြစ်သည်။ ယင်းတို့သည် ဥရောပ တောင်ပိုင်း၊ အာဖရိကမြောက်ပိုင်း၊ ကော့ကဆပ် တောင်တန်း၏ အရှေ့ဖက်ကျသော အာရှတိုက် တောင်ပိုင်း ဒေသများ၌ မူလ စတင် ပေါက်ရောက်ခဲ့သည်။ နောင်အခါ အင်္ဂလန်၊ စကော့တလန်၊ အိန္ဒိယနှင့် ဩစတြေးလီးယားတို့၌လည်း စိုက်ပျိုးဖြစ်ထွန်းသည်။ ၁၉ ရာစုနှစ်တွင် အမေရိကန်ပြည်ထောင်စု၏ အရှေ့ပိုင်းနှင့် ပစိဖိတ်သမုဒ္ဒရာကမ်းရိုးတန်း ဒေသများ၌လည်း စိုက်ပျိုး၍ အောင်မြင်သည်။ ၂၀ ရာစုနှစ်ဝင်စတွင် အမေရိကန် အရှေ့ပိုင်းဒေသများ၌ အပင်များပျက်စီးကာ ထိုအပင်မျိုး ပျောက်ကွယ်လုမတတ် ဖြစ်ခဲ့သော်လည်း ကာလီဖိုးနီးယားပြည်နယ်နှင့် ပစိဖိတ်သမုဒ္ဒရာ အနောက်မြောက်ပိုင်း ဒေသတို့တွင် ဖြစ်ထွန်းလျက်ပင် ရှိသည်။ သစ်အယ်မျိုးတို့အနက် ထိုမျိုးစိတ်ဝင်တို့သည် ပင်လုံးပင်စည် အကြီးမားဆုံး ဖြစ်သည်။ စစ္စလီကျွန်း မောင့်အက်တနာ မီးတောင်၏ ခြေရင်းတွင် တွေ့ရသော သစ်အယ်ပင်သည် ၁၇၅၀ ပြည့်နှစ်တွင် ပင်စည်လုံးပတ် ၂၀၄ ပေရှိ၍ ဆိုခဲ့သော မီးတောင်ပေါက်ကွဲသဖြင့် အပင်ကြီး ပျက်စီးရချိန်တွင် အပင်သက် ၂,၀၀၀ ခန့်ရှိမည်ဟု ခန့်မှန်းကြလေသည်။

ဥရောပ သစ်အယ်သီးဆန်သည် ဥရောပနှင့် အမေရိက တိုင်းပြည်များ၌ စားသုံးကြသော သစ်အယ်သီးဆန်မျိုး ဖြစ်သည်။ စပိန်သစ်အယ်၊ သစ်အယ်ချိုဟုလည်း ခေါ်တွင်သည်။ နိုင်ငံခြားသို့ သစ်အယ်သီးဆန် အများဆုံး တင်ပို့နိုင်ကြသော နိုင်ငံများမှာ ဣတလီ၊ စပိန်နှင့် ပေါ်တူဂယ် နိုင်ငံများ ဖြစ်သည်။ အစေ့ဆန် အကြီးစားများကို အစိမ်းအတိုင်း၎င်း၊ လှော်၍၎င်း၊ ပြုတ်၍၎င်း စားသုံးကြသည်။ ဒုတိယတန်းစားများကို အခြောက်ခံကာ မာအောင် ပြုပြီးလျှင် အမှုန့်ပြု၍ ဂျုံ၊ ပြောင်း စသည်တို့အစား စွတ်ပြုတ်၊ ပေါင်မုန့်နှင့် အခြား အစားအသောက်များ၌ ထည့်သွင်း အသုံး ပြုကြလေသည်။ အသေးစားများကိုမူ နွားစာ၊ ဝက်စာ စသည်ဖြင့် အသုံးပြုကြလေသည်။

အမေရိကန် သစ်အယ်မျိုးသည် အမေရိကန် ပြည်ထောင်စု၏ အဖိုးတန် သစ်ပင်များအနက်တွင် တမျိုးအပါအဝင် ဖြစ်သည်။ မူလက မိန်းပြည်နယ် တောင်ပိုင်း၊မီရှီဂန်ပြည်နယ်အရှေ့တောင်ပိုင်း၊ အီလီနွိုင်ပြည်နယ်တောင်ပိုင်း၊ ဖလော်ရီဒါပြည်နယ် အနောက်ပိုင်း၊ နယူးအင်္ဂလန် ပြည်နယ် အတ္တလန္တိတ် ကမ်းရိုးတန်း မရောက်မီ ဒေသများ စသည်တို့၌ ပျံ့နှံ့ ပေါက်ရောက်သည်။ ထိုအပင်မျိုးတို့သည် တောင်တန်းဒေသများ၌ ထူထပ်စွာပေါက်ရောက်၍ မြေနိမ့်ပိုင်းသို့ ရောက်သောအခါ အပင်များ ကျဲသွားသည်။ သစ်တောများတွင် ထိုသစ်အယ်ပင်တို့သည် ပေ ၁၀၀ အထိ မြင့်ကြ၍ ကွင်းပြင်တွင် ပင်စည် အချင်း ခြောက်ပေမှ ရှစ်ပေအထိရှိသော သစ်အယ်ပင်များကို မကြာခဏ တွေ့ရသည်။ ပင်စည်အချင်း ၁၂ ပေ ကျော်သော သစ်အယ်ပင်များပင် ရှိကြောင်း သိရှိရသည်။

ဥရောပ သစ်အယ်သီးဆန်နှင့် စာလျှင် အမေရိကန် သစ်အယ်သီးဆန်သည် သေးငယ်ပြီးလျှင် အရောင်မွဲမွဲ အမွေးနုများဖြင့် ဖုံးလွှမ်းနေသဖြင့် အမြင်မလှပေ။အရသာတွင် အမေရိကန် သစ်အယ်သီးဆန်၏ အရသာကို တရုပ်သစ်အယ်သီးဆန်ကသာလျှင် မှီနိုင်ပေသည်။ ဥရောပ သစ်အယ်မျိုးနှင့် အမေရိကန် သစ်အယ်မျိုး တို့တွင် မျိုးစိတ်မျိုးပြား အများအပြားရှိလေသည်။

ဂျပန်သစ်အယ်မျိုးသည် ဂျပန်နှင့် ကိုရီးယား နိုင်ငံများတွင် မူလ ပေါက်ရောက်သည်။ ဂျပန်နိုင်ငံတွင် ၁၇ ရာစုနှစ် အစောပိုင်းက သစ်အယ်သီးဆန်သည် ထိုတိုင်းပြည်၏ အရေးပါသော အစားအစာတမျိုး ဖြစ်သည်။ အပင်သည် အငယ်စား ဖြစ်သော်လည်း ပေ ၆၀ မြင့်၍ လုံးပတ် သုံးပေရှိသော ဂျပန်သစ်အယ်ပင်မျိုးများ ရှိခဲ့ကြောင်း မှတ်တမ်း

များတွင် တွေ့ရသည်။ အမေရိကန် ပြည်ထောင်စုသို့ ၁၇၇၆ ခုနှစ်တွင် မျိုးယူ၍ စိုက်ခဲ့ရာ အပင်များသည် သီးချိန်မတိုင်မီ အသီးသီး၍ အသီးလည်း များသည်။ အစေ့ဆန်များသည်လည်း အမြင်လှသည်။ သို့သော် နူးနူးညံ့ညံ့ မရှိပေ။ ပြုတ်၍ဖြင်း၊ လှော်၍ဖြင်း စားသုံးမှ သာလျှင် အရသာ ပို၍ကောင်းလေသည်။

တရုပ် သစ်အယ်မျိုးသည် ဂျပန် သစ်အယ်မျိုးအရွယ် အစားပင် ဖြစ်သည်။ ၁၈၀၆ ခုနှစ်မှ ဒုတိယကမ္ဘာစစ်မတိုင်မီ ကာလအတွင်း အမေရိကန် ပြည်ထောင်စုသို့ မျိုးယူ၍ ကျယ်ကျယ်ပြန့်ပြန့် စိုက်ပျိုးခဲ့သည်။ ပေါက်ရောက်သော အပင်တို့သည် ပုတိုက်တိုက် အစားလည်းပါသည်။ မြင့်မြင့်မားမားလည်းပါသည်။ အလတ်စားမျိုးလည်း ပါသည်။ ဥရောပသစ်အယ်ကဲ့သို့ အစေ့ဆန် မကြီးသော်လည်း အမြင်လှ၍ အရောင်တောက်ပြီးလျှင် အရသာ ချိုသည်ကိုတွေ့ရလေသည်။

မြန်မာနိုင်ငံတွင် ကက်စတာနေ့ာပဆစ် မျိုးခွဲ ဝင် သစ်အယ်မျိုးပေါင်း ၁၄ မျိုးခန့်ရှိသည်။ ထိုပြင် စား၍ ကောင်းသော အစေ့ဆန် ရရှိပြီးလျှင် ရုက္ခဗေဒ အမည်ဖြင့် ကက်စတာနီးယား ဆက်တီဗာဟု ခေါ်သော ဥရောပ သစ်အယ်မျိုးသည်လည်း မြန်မာနိုင်ငံမြောက်ပိုင်း တောင်တန်းဒေသ၌ စိုက်ပျိုးဖြစ်ထွန်းလေသည်။

ထို့ပြင် ကက်စတာနေ့ာပဆစ် မျိုးခွဲတွင် ပါဝင်၍ မြန်မာနိုင်ငံ တောင်ကုန်း ဒေသများတွင် ပေါက်ရောက်သော ဂုံပင် (ကက်စတာနေ့ာပဆစ် အာဂျီရိုဖီလာ)၊ ကပ်ပင် (ကက်စတာနေ့ာပဆစ် ထရီဗျူလွိုင်ဒီး) တို့သည်လည်း သစ်အယ်မျိုးဝင်များ ဖြစ်ကြလေသည်။

**သတ္တဋ္ဌာန။** ။မြတ်စွာဘုရားသခင်သည် ဗောဓိပင်ရင်း၌ သဗ္ဗညုတ ရွှေဉာဏ်တော်ကို ရတော်မူပြီးနောက် ဘုရားရှင်တို့ ပြုရိုးဖြစ်စဉ် ဓမ္မတာသုံးဆယ်အနက် ဓမ္မတာတခုဖြစ်သော တဋ္ဌာနလျှင် ခုနစ်ရက်တာမျှ ခုနစ် ဌာနတွင် မွေလျော်စံပယ်တော်မူခြင်း ပြုလေသည်။ ထိုခုနစ်ဌာနကို ပေါင်း၍သတ္တဋ္ဌာနဟုခေါ်သည်။(ဓမ္မတာသုံးဆယ်—ရှု။)

ဌာန ခုနစ်ဆူကား (၁) ပလ္လင်္ကသတ္တာဟ။ (၂) အနိမ္မိသ သတ္တာဟ။ (၃) ရတန စင်္ကမ သတ္တာဟ။ (၄) ရတနဃရ သတ္တာဟ။ (၅) အဇပါလ သတ္တာဟ။ (၆) မုစလိန္ဒ သတ္တာဟနှင့် (၇) ရာဇာယတန သတ္တာဟတို့ ဖြစ်ကြသည်။

ပလ္လင် သတ္တာဟ မည်သည် မြတ်စွာ ဘုရားသည် ဗောဓိပင်၏ အရှေ့မျက်နှာ လေးတောင်ကွာအရပ်၌ ပါရမီတော်တို့ကြောင့် ပေါ်ပေါက် လှာသော ပလ္လင်ထက်၌ သဗ္ဗညုတဉာဏ်တော်ကြီးကိုရကာ ဘုရားဖြစ်တော်မူသည်မှ စ၍ ထက်ဝယ်ဖွဲ့ခွေနေတော်မူပြီးလျှင် ပဋိစ္စသမုပ္ပါဒ်ဓမ္မကို အနုလောမ ပဋိလောမအားဖြင့် ဆင်ခြင်အောက်မေ့လျက် ကုဋေ အသိန်းမကသော ဖလသမာပတ်ကို ဝင်စားကာ သိကြား၊ သုယာမ၊ သန္တုဿိတ၊ မဟာဗြဟ္မာ စသော နတ်တို့၏ ပူဇော်ခြင်းကို ခုနစ်ရက်ပတ်လုံးခံယူ စံပယ်တော်မူရာအရပ် ဖြစ်သည်။ ပလ္လင်္ကသတ္တာဟ ဆိုသည်မှာ ပလ္လင်ပေါ်တွင် သီတင်းသုံးနေသော ခုနစ်ရက်ဟု ဆိုလိုသည်။ ဖလသမာပတ်ကို ဝင်စားသည် ဆိုရာ၌ နိဗ္ဗာန်၏ ချမ်းသာပုံကို အာရုံပြုသည်ဟု ဆိုလို၏။ ဤပလ္လင်ကို လုယူလိုသူတို့သည် မည်သည့် နည်းဖြင့်မျှ လုယူ၍ မအောင်မြင်နိုင်၊ တနည်း လုယူလိုသူများထံမှာ မဆုံးရှုံးနိုင်သောပလ္လင်ဖြစ်၍ အပ္ပရာဇိတ ပလ္လင်ဟု ခေါ်သည်။ သီရိဓမ္မာသောကမင်းသည် မဟာဗောဓိပင်နှင့် ပလ္လင်တော်ကို ဖူးမျှော်ရန် မိဖိနန်းစံ ၁၀ နှစ်၊ ၁၁ နှစ်ခန့်တွင် လာရောက်၍ ဗောဓိပင်၏ အနီးတွင် မဟာဗောဓိစေတီကို တည်ထားတော် မူခဲ့၏။ ထိုတည်ခဲ့ရင်း စေတီတော်မှာ ကာလ ကြာမြင့်၍ ပျက်စီးယိုယွင်းသဖြင့် ယခု တွေ့ရှိ ဖူးမျှော်ရသောစေတီတော်မှာ ဗုဒ္ဓအယူဝါဒီတို့က ဆက်လက် ပြုပြင် ထားသော စေတီတော်ကြီးသာ ဖြစ်၏။ ယခု ရှိနေသော ဗောဓိပင်မှာလည်း မူလပင်ရင်းမှ ဆင်းသက် ပေါက်ဖွား လာသော အဆက်အနွယ်ဝင် ဗောဓိပင်သာ ဖြစ်လေသည်။

အနိမ္မိသ သတ္တာဟ မည်သည် ဗောဓိပင်၏ အရှေ့မြောက်ယံ တဆဲ့လေးလံကွာသော အရပ်၌ မြတ်စွာဘုရားသည် ရပ်တော်မူလျက် ဗောဓိရပ်ခွင် ရွှေပလ္လင်ဝယ် သဗ္ဗညုတဉာဏ်ကို ရပေသည်တကားဟု ခုနစ်ရက်ပတ်လုံး မမှိတ်သောမျက်စိဖြင့် ကြည့်ရှုစံပယ်တော်မူရာ အရပ်ဖြစ်သည်။ အနိမ္မိသ သတ္တာဟ ဆိုသည်မှာ မျက်စိမှိတ်ခြင်း မရှိသော ခုနစ်ရက်ဟု ဆိုလိုသည်။ ဤသို့ မြတ်စွာဘုရားသည် ဗောဓိပင်နှင့် ပလ္လင်တော်ကို ကြည့်ရှုကာ ခုနစ်ရက် တိုင်တိုင် ရပ်တော်မူရာ အရပ်ကို အနိမ္မိသ စေတီဟု ခေါ်သည်။ မြတ်စွာဘုရားသာ အထူးသုံးဆောင်တော်မူအပ်သောအရာဟူသမျှသည် ပရိဘောဂစေတီ ထိုက်သည်ချည်း ဖြစ်၏။ ။

ရတနစင်္ကမ သတ္တာဟမည်သည် ထိုသို့ ပလ္လင်တော်ကို စိမ့်စိမ့် မှည့်မှည့် ကြည့်ရှုတော်မူသောအခါ နတ်တို့က ဤသိဒ္ဓတ်မင်းသား ဘုရားအလောင်းတော်သည် စံပျော်ဘူးသည့် ပလ္လင်ကိုမှ ခင်မင်တောင့်တခြင်း မပြတ်၊ ထပ်၍ ပြုအပ်သော မင်္ဂကိစ္စ ရှိချေသေးသည်ဟုအကြံဖြစ်သည်ကို သိမြင်တော်မူလတ်၍ နတ်တို့၏ သံသယကို ပယ်ဖျောက်ခြင်းငှာ မြတ်စွာဘုရားသည် ကောင်းကင်သို့ တယူဇနာမျှ ပျံတက်၍ ယမိုက်ပြာဋိဟာကို ပြတော်မူလျက် ကောင်းကင်မှ သက်တော်မူသောအခါ ရွှေပလ္လင်နှင့် အနိမ္မိသ အကြား အတောင်၂၀ ရှိသော အရပ်ကို ဗဟိုထား၍ တဖက်

ငါးလံကွာ ဌာနတွင် အရှေ့အနောက် အတောင်ခြောက်ဆယ်ရှည်သော ရတနာစင်္ကြန်ကို ဖန်ဆင်းကာ ခုနစ်ရက်ပတ်လုံး စင်္ကြန် ကြွတော်မူရာ အရပ်ဖြစ်သည်။ စင်္ကမသတ္တာဟ ဆိုသည်မှာ စင်္ကြန်ကြွနေတော်မူသည့် ခုနစ်ရက်ဟု ဆိုလိုသည်။ ထိုစင်္ကြန် ကြွတော်မူရာ နေရာ ကိုလည်း ရတနစင်္ကမ စေတီဟု ခေါ်၏။

ရတနဃရ သတ္တာဟ မည်သည် မြတ်စွာဘုရားသည် မဟာဗောဓိပင်မှ အနောက်မြောက် အတောင်လေးဆယ်ကွာနေရာတွင်ရှိသော ရတနာခုနစ်ပါးဖြင့် ခြယ်လယ်ကာ နတ်များဖန်ဆင်းအပ်သော အိမ်၌ ထက်ဝယ်ဖွဲ့ခွေနေတော်မူလျက် ပိဋကသုံးပုံကို သုံးသပ်ဆင်ခြင်တော်မူသည်တွင် မဟာပကရဏဖြစ်သော ပဋ္ဌာန်းကျမ်းသို့ရောက်လျှင် ထက်ဝန်းကျင် ကိုယ်တော်မှ ရောင်ခြည်တော်ခြောက်သွယ်သည် တဖိတ်ဖိတ်ကွန့်မြူးလျက် ခုနစ်ရက်ပတ်လုံး စံပယ်တော်မူရာ အရပ်ဖြစ်သည်။ ရတနဃရသတ္တာဟ ဟူသည် ရတနာအိမ်၌ ဒသီတင်းသုံးတော်မူသော ခုနစ်ရက်ဟု ဆိုလိုသည်။ ဤအဘိဓမ္မာတရားကို သုံးသပ်ဆင်ခြင်ခြင်း ပြုရာအိမ်ကို ရွှေငွေစသော ရတနာခုနစ်ပါးတို့ဖြင့် ခြယ်လယ်ကာ နတ်များဖန်ဆင်းထားသည်ဟု သုတ္တန်ဆောင် ပုဂ္ဂိုလ်တို့က မိန့်ဆိုတော်မူကြ၏။ အဘိဓမ္မာဆောင် ပုဂ္ဂိုလ်တို့ကမူကား ရတနဃရဟူသည် ရွှေငွေစသော လောကီရတနာ ခုနစ်ပါးတို့ဖြင့် ခြယ်လယ်ထားသော အိမ်မဟုတ်၊ အဘိဓမ္မာ ခုနစ်ကျမ်းတည်းဟူသော တရားရတနာတို့ကို သုံးသပ်ဆင်ခြင်ရာအိမ်ဖြစ်သောကြောင့် ရတနာအိမ်ခေါ်သည်ဟု မိန့်ဆိုတော်မူကြ၏။ ထိုအိမ်နေရာအရပ်ကိုလည်း ရတနဃရစေတီ ဟု ခေါ်လေသည်။

အဇပါလ သတ္တာဟ မည်သည် မဟာဗောဓိပင်၏ အရှေ့မျက်နှာ ၃၂ လံ ကွာတွင် ရှိသော အဇပါလ ညောင်ပင်ရင်း၌ မြတ်စွာဘုရားသည် မိမိအားဖျက်ဆီးခြင်းငှာ ကြံရွယ်လာရောက်ကြကုန်သော မာရ်နတ်မင်း၏ သမီးသုံးယောက်နှင့် 'အဘယ်သို့သော သူသည် ဗြာဟ္မဏ မည်ပါသနည်း' ဟု မေးခွန်းပုစ္ဆာ ထုတ်လာပေသော ဟုံဟုံက ပုဏ္ဏားတို့အား တရားရေအေး တိုက်ကျွေးတော်မူလျက် ခုနစ်ရက်ပတ်လုံး တရားတော်တို့ကို စိစစ်ဆင်ခြင်ခြင်း၊ နိဗ္ဗာန်၏ ချမ်းသာပုံကို အာရုံပြုခြင်းတို့ဖြင့် စံပယ်တော်မူရာ အရပ် ဖြစ်သည်။ အဇပါလဟူသည် ဆိတ်ကျောင်းညောင်ဟု ဖြစ်သည်။ ဆိတ်ကျောင်းညောင် ဟု ခေါ်သည်မှာ ဆိတ်ကျောင်းသောသူများသည် ဤညောင်ပင်အောက်တွင် လာရောက်နေထိုင်တတ်သောကြောင့်ဖြစ်၏။ အဇပါလ သတ္တာဟ ဟူသည်မှာ ဆိတ်ကျောင်းညောင်ပင် အောက်တွင် သီတင်းသုံးသော ခုနစ်ရက် ဟု ဆိုလိုသည်။ ဤညောင်ပင်ကိုကား မြတ်စွာဘုရားသာ အထူး သုံးဆောင်တော်မူရာ နေရာ မဟုတ်ပဲ ဆိတ်ကျောင်းသားများ သုံးစွဲရင်းနေရာဖြစ်၍ အဇပါလစေတီဟု မခေါ်တော့ပြီ။

မုစလိန္ဒ သတ္တာဟမည်သည် မဟာဗောဓိပင်၏ အရှေ့တောင်မျက်နှာ ၅၁ လံကွာ၊ သို့မဟုတ် ၂၉ လံကွာတွင် ရှိသော မုစလိန္ဒအိုင်အနီး ကျည်းပင်ကြီး၏အရင်း၌ မြတ်စွာဘုရားသည် သီတင်းသုံးတော်မူခိုက် စကြဝဠာတခုလုံးကို ပျံ့နှံ့ကာ မိုးရေရောထွေး လေပြင်းတိုက်ခတ်လျက် နေ့ရက်ကို ဖျက်ဆီးတတ်သော မိုးကြီးသည် အခါမဟုတ်ပဲ ခုနစ်ရက်တိုင်ရွာစေ့ခဲ့သည်တွင် ကိုယ်တော်အား ချမ်းအေးခြင်းစသောဘေးကို ကာကွယ်ရန်အလို့ငှါ မိမိ၏ကြီးစွာသောကိုယ်ဖြင့် ခုနစ်ဆင့်ရစ်ခွေ ဦးခေါင်းတော်ပေါ်မှ ပါးပျဉ်းဖြင့် အုပ်မိုး ကွယ်ကာပေးသော မုစလိန္ဒ နဂါးမင်း၏ အစောင့်အရှောက်ကို ခံယူတော်မူကာ နိဗ္ဗာန်၏ချမ်းသာပုံကို အာရုံဝင်စားလျက်ခုနစ်ရက်ပတ်လုံး သီတင်းသုံးတော်မူရာအရပ် ဖြစ်သည်။ မုစလိန္ဒနဂါးဟူသည် ကျည်းပင်အနီး ရှိရေအိုင်၊ သို့မဟုတ်ရေကန်နှင့် ဆက်သွယ်လျက်ရှိသော နဂါးဘုံနေ တန်ခိုးကြီးသော နဂါးဖြစ်၏။ မုစလိန္ဒသတ္တာဟ ဟူသည် ကျည်းပင်ရင်းတွင် သီတင်းသုံးသော ခုနစ်ရက်ဟု ဆိုလိုသည်။ ဤကျည်းပင်ကိုလည်း မုစလိန္ဒစေတီယဟု မခေါ်တော့ပြီ။

ရာဇာယတန သတ္တာဟ မည်သည် မဟာဗောဓိပင်၏ တောင်မျက်နှာ အလံလေးဆယ်ကွာ အရပ်တွင် ရှိသော ရာဇာယတန ခေါ် လင်းလွန်းပင်ရင်း၌ မြတ်စွာဘုရားသည် သမာပတ်ကို ဝင်စား၍ ခုနစ်ရက်ပတ်လုံး သီတင်းသုံးတော်မူရာအရပ်ဖြစ်သည်။ ရာဇာယတန သတ္တာဟ ဟူသည် လင်းလွန်းပင်ရင်း သီတင်းသုံးတော်မူသည့် ခုနစ်ရက်ဟု ဆိုလိုသည်။ ဤလင်းလွန်းပင်ကိုလည်း ရာဇာယတန စေတိယဟု မခေါ်တော့ပြီ။ ပလ္လင်္က သတ္တာဟ မှ စ၍ ရာဇာယတန သတ္တာဟအထိ ခုနစ်ရက် ခုနစ်လီဖြစ်၍ ၄၉ ရက်ဖြစ်၏။ မြတ်စွာဘုရားသည် ကဆုန်လပြည့်နေ့တွင် သုဇာတာ လှူဒါန်းသောဃနာနို့ဆွမ်းကို ၄၉ လုပ်တိတိဘုဉ်းပေးတော်မူခဲ့ရာ၊ တရက်တလုပ်ကျနှင့်မျှတတော်မူ၏။ ရက် ၅၀ မြောက်ဖြစ်သောနေ့မှာကား စားသုံးတော်မူရန် အာဟာရလိုသည့်အတိုင်း ဥက္ကလာဇနပုဒ်မှ အရောင်းအဝယ်လာရောက်ကြသော တပုဿနှင့် ဘလ္လိကခေါ် ကုန်သည်ညီနောင်တို့အား ရှေးဘဝက အမျိုးတော်သောနတ်က ညွှန်ကြားချက်အရ လင်းလွန်းပင်မှ မြတ်စွာဘုရားကြွသွားတော်မမူမီ ကုန်သည်ညီနောင်တို့ ရောက်လာကြပြီးလျှင် မုံ့ကြွက်ကျစ်နှင့် ပျားမုံ့ဆုပ်များကို လှူဒါန်းပြီးမှ မြတ်စွာဘုရားကို ကိုးကွယ်ရာဟူ၍ ယုံကြည်ဆည်းကပ်ပါ၏၊ တရားတော်ကို ကိုးကွယ်ရာဟူ၍ ယုံကြည်ဆည်းကပ်ပါ၏ ဟူသောစကားနှစ်ခွန်းဖြင့် သရဏဂုံ တည်ဆောက်ကြရကုန်၏။ သံဃာတော် မပေါ်

သေးသောကြောင့် သံဃသရဏဂုံကို မဆောက်တည်ကြရ။ သို့ဖြစ်၍ ထိုညီနောင်တို့၏ သရဏဂုံကို ဒွေဝါစိက သရဏဂုံ ဟုခေါ် လေသည်။ (ဘလ္လိကနှင့် တပုဿ။ သရဏဂုံ — လည်းရှု။)

အထက်ပါ သတ္တဌာန နေရာခုနစ်ဆူ၏ အကြောင်းကို သင်္ဂါယနာဝင် အဋ္ဌကထာကြီးတို့၌ ဖော်ပြပါရှိသော်လည်း ဌာနအသီးအသီး၏အကွာအဝေးများကိုကား ဖော်ပြထားခြင်း မရှိချေ။ ဗောဓိဝင် စာကိုယ်ဋီကာ၊ ဗောဓိဝိဘာဝနီ စသော ကျမ်းငယ်တို့တွင်ကား ဌာနအသီးအသီး၏ အကွာအဝေးတို့ကို ဖော်ပြထား၏။ သို့ရာတွင် ကျမ်းတစောင်နှင့် တစောင် တူညီခြင်း မရှိကြချေ။ အထက်၌ ဖော်ပြခဲ့သော ဌာနအသီးအသီး၏ အကွာအဝေးများမှာမူ ဇိနတ္ထပကာသနီကျမ်းစီရင်သော ရွှေတောင်မြို့ကျီးသဲလေးထပ်ကျောင်း ဆရာတော်ဘုရား၏ အယူအဆဖြစ်ပေသည်။

**သတ္တုနှင့်သတ္တုလုပ်ငန်း။** ။သတ္တုကို အဓိပ္ပာယ်ထိကျစွာ ဖော်ပြရန် ခဲယဉ်းသည်။ သို့သော် သတ္တုဟုခေါ်သော ဒြပ်စင်များတွင် အပူနှင့် လျှပ်စစ်ဓာတ်လိုက်လွယ်ခြင်း၊ မာကျောခြင်း၊ ထုပိန်းခြင်း၊အလင်းပြန်လည်ရိုက်ဟပ်နိုင်ခြင်း၊ အပြားရိုက်ခတ်နိုင်ခြင်း၊ နန်းဆွဲခံနိုင်ခြင်း၊ အလေးချိန်စီးခြင်း၊ ပစ္စည်းသန့်သန့်ဖြစ်မူ သလင်းပွင့်အနေဖြင့် တွေ့ရခြင်း၊ သာမန်အပူချိန်တွင် အစိုင် အခဲအဖြစ်၌ တည်ရှိခြင်းစသည့် ဂုဏ်သတ္တိများရှိကြောင်း တွေ့ရသည်။ သတ္တုတို့၏အခြားထူးခြားသော ဂုဏ်တရပ်မှာ တမျိုးနှင့်တမျိုး ရောစပ်၍ မရေမတွက်နိုင်အောင် များပြားလှသော သတ္တုစပ်များကို ဖြစ်စေနိုင်ခြင်းပင် ဖြစ်၏။ ကမ္ဘာပေါ်တွင် တွေ့ရှိရသော ဒြပ်စင် ၉၇ ခုအနက် ၅၇ ရာခိုင်နှုန်းခန့်မှာ သတ္တုများ ဖြစ်သည်။ သို့ရာတွင် သတ္တုတိုင်း၌ကား ဆိုခဲ့သော ဂုဏ်များ မရှိချေ။ ဆိုဒီယမ်နှင့် ပိုတက်ဆီယမ် သတ္တုများသည် ရေထက်ပင် ပေါ့ပါးကြသည့်ပြင် လှီးဖြတ်၍ ရလောက်အောင်ပင် ပျော့ပျောင်းကြ၏။ မာကျူရီ (ပြဒါး) သည် သာမန်အပူချိန်၌ အရည်ဖြစ်၍ –၄၀ ဒီဂရီ ဖာရင်ဟိုက်၌ ခဲသွားသည်။တန်စတင်သည် သာမန်အပူချိန်၌အခဲဖြစ်၍ ၆,၁၀၀ ဒီဂရီဖာရင်ဟိုက်၌ အရည်ပျော်၏။ အန်တီမိုနီ (ခနောက်စိမ်း)နှင့် ဗစ်စမတ် (ကြွပ်) တို့မှာ အလွန်ကြွပ်ဆပ်သဖြင့် အနည်းငယ်ထုရိုက်ရုံမျှဖြင့် ကွဲထွက်ကုန်ကြ၏။ သတ္တုများတွင် ဖြစ်သော ဓာတ်ပြောင်းလဲမှုများသည် သတ္တုအမျိုးအစားကိုလိုက်၍ ကွဲပြားခြားနားကြသည်။ ပလက်တီနမ် (ရွှေဖြူ) နှင့် ရွှေကဲ့သို့သော အဖိုးတန် သတ္တုများသည် အပြင်းဆုံး ဓာတ်ပစ္စည်းများနှင့် ထိတွေ့မှသာလျှင် ဓာတ်ပြောင်းလဲမှုများ ဖြစ်ကြသည်။ သို့သော် ပိုတက်ဆီယမ်၊ ဆိုဒီယမ်၊ လစ်သီယမ် စသည့် သတ္တုများမှာမူကား ရေဖြင့် တွေ့ထိရုံမျှနှင့်ပင် လွယ်ကူစွာ ဓာတ်ပြောင်းလဲမှုများ ဖြစ်နိုင်ကြလေသည်။

ဓာတုဗေဒအရ သတ္တုတို့၏ အောက်ဆိုက်များသည် များသောအားဖြင့်ဗေ့များဖြစ်ကြသည်။သတ္တုမဟုတ်သည့် ဒြပ်စင်တို့၏ အောက်ဆိုက်များမှာမူကား ရေတွင်ပျော်ဝင်၍ အက်ဆစ်အဖြစ်သို့ ပြောင်းသွားနိုင်ကြသည်။ ပုံမှာ သတ္တုများဖြစ်ကြသည့် သံနှင့်ကြေးနီတို့၏ အောက်ဆိုက်များသည် ဗေ့များဖြစ်ကြသည်။ ကန့်နှင့် ကာဗွန်မှာသတ္တုများမဟုတ်ချေ။ ဤဒြပ်စင်တို့၏ အောက်ဆိုက်များသည် ရေတွင်ပျော်ဝင်ကြပြီးလျှင် ဆာလဖျူရစ် အက်ဆစ်နှင့် ကာဗွန်နစ် အက်ဆစ်ဟူ၍ အသီးအသီး ဖြစ်လာကြသည်။ သို့သော် ဤဓာတ်ဂုဏ်များလောက်ဖြင့် သတ္တုကို ခွဲခြားသတ်မှတ်၍ မဖြစ်နိုင်သေးပေ။ အဘယ်ကြောင့်ဆိုသော် အာစနစ်(စိန်ဖြူ)၊ အန်တီမိုနီ(ခနောက်စိမ်း) တို့ကဲ့သို့သော ဒြပ်စင်အချို့တွင် ဆိုခဲ့သော ဓာတ်ဂုဏ်နှစ်မျိုးစလုံး ရှိနေသောကြောင့် ဖြစ်သည်။

ပြဒါး၊ ရွှေအစရှိသော သတ္တုအချို့မှလွဲ၍ အခြားသတ္တုများကို သန့်သန့် တွေ့ရခဲသည်။ များသောအားဖြင့် သတ္တုများကို အိုင်းယန်း (သံ)၊ မာကျူရီ (ပြဒါး)၊ ကော့ပါး (ကြေးနီ) တို့တွင်ကဲ့သို့ ဆာလဖိုက် အနေဖြင့်ရင်း၊ အလျူမီနီယန်၊ အိုင်းယန်း(သံ)၊ အာစနစ် (စိန်ဖြူ) တို့တွင်ကဲ့သို့ အောက်ဆိုက် အနေဖြင့်ရင်း၊ မက်ဂနီဇီယမ်၊ ကယ်လဆီယမ်တို့တွင်ကဲ့သို့ ကာဗွန်နိတ်အနေဖြင့်ရင်း၊ ဆိုဒီယမ်၊ ပိုတက်ဆီယမ်တို့တွင်ကဲ့သို့ ကလိုရိုက်အနေဖြင့်ရင်း တွေ့ရှိရတတ်သည်။ သတ္တုရိုင်းများတွင် ပါရှိသည့် သတ္တုတို့၏ အတိုင်းအဆမှာလည်း အမျိုးမျိုးရှိသည်။ ဂလီနာသတ္တုရိုင်းတွင် ခဲ ရာခိုင်နှုန်း ၈၀ ကျော် ပါရှိသော်လည်း ပစ်ချဗလင်း သတ္တုရိုင်းကို တန်နှင့်ချီ၍အသုံးပြုပါမှ ရေဒီယမ် အနည်းငယ်ခန့်ကို ရရှိနိုင်သည်။

ယခုခေတ်သည် သတ္တုခေတ်ဖြစ်သည့်အလျောက်ကျွန်ုပ်တို့သည် သတ္တုများကိုအမျိုးမျိုးအသုံးပြုလျက်ရှိကြသည်။ ရွှေ၊ ငွေ၊ ပလက်တီနမ်တို့ကဲ့သို့သော အဖိုးတန်သတ္တုများဖြင့် အလှပြအထည်များ၊ ကြေးငွေများ၊ ကိုယ်တွင်ဆင်မြန်းရန် ဝတ်စားတန်ဆာများကို ပြုလုပ်ကြသည်။

အလျူမီနီယမ်(ဒန်)၊အိုင်းယန်း(သံ)၊ကော့ပါး(ကြေးနီ)၊ ဇင့်(သွပ်)၊ တင်း (သံဖြူ)၊ လက် (ခဲ) တို့ကဲ့သို့သော အတွေ့ရများသော သတ္တုများကို အိမ်အသုံးအဆောင်များနှင့် အင်ဂျင်နီယာ လုပ်ငန်းများတွင် သုံးသည်။ သို့သော် အထက်ပါ သတ္တုများမှာ သတ္တုချည်းသက်သက် ဆိုလျှင် ကျွန်ုပ်တို့ လိုအပ်သည့်ဂုဏ်များဖြင့် မပြည့်စုံသောကြောင့် များစွာအသုံးဝင်လှမည် မဟုတ်ပေ။ ဤသတ္တုများကို နစ်ကယ်၊ ကက်ဒမီယမ်၊ ကရိုမီယမ်၊ တန်စတင်၊ မော်လစ်ဒီနမ်၊

မန်ဂနိ၊ ကိုဗော့၊ ဗနေဒီယမ်၊ အန်တီမိုနီ၊ ဗစ်စမတ်တို့ကဲ့သို့ အခြားသော သတ္တုများဖြင့် ရောပေးသောအခါ အသုံးအမျိုးမျိုးအတွက် လိုအပ်သော ဂုဏ်များနှင့် ပြည့်စုံလာလေသည်။

ပုံပမာ သံအစစ်မှာ သုံးမရနိုင်လောက်အောင် ပျော့သဖြင့် ယင်းသတ္တုကို အခြားသတ္တုများဖြင့် ရောစပ်၍သုံးကြရသည်။ မန်ဂနိနှင့်ရောစပ်ထားသော သတ္တုစပ်သည် လက်နက်များပြုလုပ်ရာ၌ အသုံးဝင်သည်။ ကရိုမီယမ်နှင့် ရောစပ်ထားသော သတ္တုစပ်မှာ သံချေးမတက်နိုင်သဖြင့် အစွန်းခံသံမဏိဟု အမည်တွင်သည်။ သံတွင် နစ်ကယ်အနည်းငယ်ရောပေးလျှင် နန်းဆွဲခံသတ္တုပို၍ကောင်းလာသည်။ ရွှေငွေတို့ဖြင့် ပြုလုပ်သော ဝတ်စားတန်ဆာတို့ကို အပွန်းခံနိုင်စေရန် အခြားသတ္တုများဖြင့် ရောနှောသုံးစွဲကြရသည်။ ရှေးအခါက လူတို့သည် သတ္တုတို့၏ ဂုဏ်များကို လေ့လာပြီးသည့်နောက်မှ ထိုသတ္တုတို့ကို မည်ကဲ့သို့ အသုံးချနိုင်မည့်နည်းများကိုတွေးတောကြံဆကြလေသည်။ သို့သော် ယခုခေတ်တွင်မူကား လူတို့သည်မရေမတွက်နိုင်လောက်အောင် များပြားလှသော သတ္တုစပ်များကို ပြုလုပ်နိုင်ကြပြီ ဖြစ်သောကြောင့် လုပ်ငန်းတခုတွင် လိုမည့်သတ္တု၏ ဂုဏ်သတ္တိကို ပဋ္ဌမစဉ်းစား၍ ထိုဂုဏ်သတ္တိနှင့်ပြည့်စုံသော သတ္တုကို ပြုလုပ်ယူလေ့ရှိကြသည်။ (သတ္တုစပ် — ရှု။)

**သတ္တုကဲခတ်ခြင်း။** ။သတ္တုကျောက်ရိုင်း နမူနာများ၊ သန့်ထားသည့်သတ္တုတုံးများ၊ သို့မဟုတ် သတ္တုစပ်များတွင် သတ္တု တမျိုးသော်၎င်း၊ တမျိုးထက်ပို၍သော်၎င်း မည်သည့် အချိုးအစား ပါဝင်သည်ကို သိရှိရန်အတွက် ဆန်းစစ်ရှာဖွေခြင်းကို သတ္တုကဲ ခတ်သည်ဟု ခေါ်သည်။ သတ္တုကဲခတ်ခြင်းဖြင့် သတ္တုတွင်းပိုင်ရှင်တဦးသည် သတ္တုတွင်းမတူးမီ အကယ်၍ တူးပါက အကျိုးရှိမရှိကို ကောင်းစွာဆုံးဖြတ်နိုင်ပေသည်။ ဒင်္ဂါးသွန်းလုပ်ရာ၌သော်၎င်း၊ လက်ဝတ်လက်စားပြုလုပ်ရာ၌ သော်၎င်း အသုံးပြုသည့် အဖိုးတန်သတ္တုတုံးများတွင် ရွှေ ငွေ သတ္တုများ စစ်မစစ်ကိုလည်း စမ်းသပ်နိုင်ပေသည်။ သတ္တုစပ်များတွင် သတ္တုကဲခတ်သည့်နည်းဖြင့် မည်သည့်သတ္တုသည် မည်သည့်အချိုးအစား ပါဝင်သည်ကို လေ့လာနိုင်သည်။ စမ်းသပ်လိုသော သတ္တုအမျိုးအစားကို လိုက်၍ သတ္တုကဲခတ်သည့် နည်းအမျိုးမျိုးရှိသည်။ သို့သော် ယေဘုယျအားဖြင့် သတ္တုကဲခတ်နည်းမှာ အခြောက်နည်း(ဝါ)မီးနှင့်စမ်းသပ်နည်းနှင့် အစိုနည်းဟူ၍ နှစ်မျိုးနှစ်စားရှိသည်။

အခြောက်နည်းတွင်နမူနာသတ္တုကျောက်ရိုင်းကိုအရည်ကျိုလိုက်ရသည်။ အရည်ကျိုလိုက်ခြင်းဖြင့် ယင်းတွင်ပါဝင်သောသတ္တုများ ကွဲထွက်လာသည်။ ရွှေနှင့်ငွေစပ်နေသော သတ္တုကျောက်ရိုင်းနမူနာကို သတ္တုကဲခတ်ရာ၌ ပဋ္ဌမ ထိုနမူနာကို အမှုန့်ကြိတ်လိုက်ရသည်။ ထိုနောက် အမှုန့်ကို လက်အောက်ဆိုက်နှင့် အခြားဓာတ်ပစ္စည်းနှင့် ရောရသည်။ ထိုရောထားသော အမှုန့်ကို ဖန်ခွက်လောက်ကြီးသည့် လုံတခုတွင် ထည့်၍ ဖိုပေါ်တင်ပြီး ကျိုရသည်။ ဤသို့ကျိုသောအခါ လက်အောက်ဆိုက်တွင်ပါသော ခဲသည် အရည်ပျော်သွားပြီးလျှင် ရွှေနှင့်ငွေတို့နှင့်ပေါင်းကာ လုံအောက်ပိုင်းသို့ ရောက်သွားလေသည်။ နမူနာသတ္တုကျောက်ရိုင်းနှင့်အခြားဓာတ်ပစ္စည်းများတွင် ပါသော အညစ်အကြေးများသည် ချော်အဖြစ်သို့ ရောက်သွားတော့၏။ ထိုချော်များမာလာသောအခါ ထုတ်ပစ်လိုက်ရ၏။ ကျန်နေသော ခဲ၊ ရွှေနှင့်ငွေသတ္တုစပ်ကို အရိုးပြာနှင့်လုပ်ထားသော မိုက်ခွက်တွင်ထည့်၍ ဖိုပေါ်တင်ပြီးလျှင် တဖန်ကျိုရပြန်သည်။ ယင်းသို့ ကျိုသောအခါ ခဲသည် လက်အောက်ဆိုက် ဖြစ်သွားပြီးလျှင် မိုက်ခွက်၏ နံရံထဲသို့ စိမ့်ဝင်သွားလေသည်။ မိုက်ခွက်တွင် ရွှေနှင့်ငွေ စပ်နေသောသတ္တုစပ်သာ ကျန်ရှိခဲ့၏။ ထိုရွှေနှင့်ငွေသတ္တုစပ်ကို ချိန်ပြီးနောက် နိုက်ထရစ်အက်ဆစ်ထဲတွင် ထည့်လိုက်သောအခါ ငွေသည် အရည်ပျော်၍ ရွှေသာလျှင် ကျန်ရစ်တော့၏။ ကျန်သော ရွှေကိုချိန်ကြည့်၍ ရွှေသားအလေးချိန်ကိုသိသောအခါ ငွေသားအလေးချိန်ကိုလည်း သိရလေသည်။ အကြောင်းကား ရွှေနှင့်ငွေစပ်နေစဉ်အခါက ချိန်ထားသော အလေးချိန်မှ ရွှေအလေးချိန်ကို နုတ်လိုက်ပါက ငွေအလေးချိန်ကို ရရှိသောကြောင့် ဖြစ်၏။

အစိုနည်းတွင် သတ္တုကျောက်ရိုင်း၊ သို့မဟုတ် သတ္တုစပ်ပျော်သွားအောင် အချို့သော ဓာတ်ပစ္စည်းများကို သုံးရသည်။ ထိုနောက် အသုံးပြုသော ဓာတ်ပစ္စည်းများနှင့် ပေါင်းစပ်သွားသော ဒြပ်ပေါင်းများကို ချိန်တွယ်ကြည့်ခြင်းအားဖြင့် ပါဝင်သော သတ္တု၏ အလေးချိန်ကို သိနိုင်ပေသည်။ အချို့စမ်းသပ်မှုများတွင် ဤဒြပ်ပေါင်းများမှ ထုတ်ယူနိုင်ပြီးနောက် သတ္တုစစ်စစ်ကို ချိန်တွယ်ယူသည်။ အချို့သော အစိုနည်းတွင် သတ္တုကျောက်ရိုင်း၊ သို့မဟုတ် သတ္တုစပ်များမှ ဓာတ်ပစ္စည်းများကြောင့် ကျေပျက် ထွက်လာသော ဒြပ်ပေါင်းများစွာ၏ အလေးချိန်ကို တိုင်းတာခြင်းအားဖြင့်လည်း ပြုလုပ်ကြသည်။ ဤကဲ့သို့ သတ္တုကဲခတ်ရန်အတွက် သတ္တုတွင်းကုမ္ပဏီများနှင့် သတ္တုဗေဒကုမ္ပဏီများသည် မိမိတို့ ကုမ္ပဏီအသီးအသီးတွင် ဓာတ်ခွဲဌာနများကို တည်ထောင်ထားကြသည်။

**သတ္တုစပ်။** ။ကမ္ဘာကြီး အတွင်း၌ တွေ့ရှိရသမျှသော ဒြပ်စင်အားလုံးတို့သည် သတ္တုချည်း မဟုတ်ကြချေ။ အချို့သော ဒြပ်စင်တို့မှာ ဓာတ်ငွေ့များဖြစ်ကြ၍ အချို့မှာ သတ္တု၊ အချို့မှာ သတ္တုမဟုတ်သော ပစ္စည်းများဖြစ်ကြ၏။ သတ္တု

များထဲတွင် နှစ်ဒါဇင်လောက်သော သတ္တုအချို့ကိုသာ လျှင် လူတို့ အသုံးများခဲ့ရာ ကျန် သတ္တုများမှာကား အလွန် ရှားပါးလှသည့်ပြင် သတ္တုရိုင်းမှ ထုတ်ယူရန်မှာလည်း များစွာ ခဲယဉ်းသောကြောင့် အသုံးမဝင်လှချေ။ လူတို့ အသုံးများသော သတ္တုများပင်လျှင် ပစ္စည်းသန့်သန့် အနေဖြင့် များစွာ အသုံးမဝင်လှသဖြင့် အနည်းအကျဉ်းလောက်ကိုသာ သန့်သန့်အတိုင်း အသုံးချကြ၏။ သို့ရာတွင် သတ္တုတခုခုသည် အခြား သတ္တုတခုနှင့်ဖြစ်စေ၊ အများနှင့် ဖြစ်စေ၊ သို့မဟုတ် သတ္တုမဟုတ်သော ပစ္စည်းတခုနှင့် ဖြစ်စေ၊ အများနှင့်ဖြစ်စေ ရောစပ်လိုက်ရာမှ ဖြစ်ပေါ်လာသော ပစ္စည်းသစ်သည် ထူးကဲသော ဂုဏ်သတ္တိများနှင့် ပြည့်စုံ၍ ပစ္စည်းသန့်သန့်ထက်ပင် ပိုမို အသုံးဝင်တတ်သည်ကို တွေ့ရလေသည်။ ထိုကဲ့သို့ ရောစပ်၍ရသော ပစ္စည်းသစ်ကို သတ္တုစပ်ဟု ခေါ်၏။ သတ္တုစပ် အမျိုးပေါင်းမှာ ယခုအခါ အလွန်များပြားနေပြီဖြစ်သည်။ စက်မှုလုပ်ငန်းကြီးများသည်လည်း ထိုသတ္တုစပ်များကြောင့်ပင်လျှင် များစွာ တိုးတက် ကြီးပွားလာလေသည်။

သံကို လူတိုင်းသိကြ၏။ သံသည် သတ္တုများတွင် အသုံးဝင်ဆုံးသော သတ္တုတခုဖြစ်၏။ သို့သော် သံချည်းသက်သက်နှင့် လုပ်ထားသော ဓားသည် ပျော့၍ အသုံးမဝင်လှချေ။ သံကို ကာဗွန် ရာခိုင်နှုန်းတစ်လောက်နှင့် ရောစပ်လိုက်သောအခါ သံမဏိခေါ် သတ္တုစပ် ဖြစ်လာ၍ ထိုသံမဏိသည် သံချည်းသက်သက်ထက် မည်မျှ အရေးပါ အရာရောက်သည်ကို လူတိုင်းပင် ကောင်းစွာ သိကြပေသည်။ သို့သော် သံနှင့် ရောစပ်ရာတွင် ကာဗွန် ရာခိုင်နှုန်း များသွားပါကလည်း ဆတ်၍ ကြွေလွယ် ပဲ့လွယ် ဖြစ်တတ်သည်။ထို့ကြောင့် သံမဏိကောင်း ရနိုင်ရေးအတွက် သံကို ကာဗွန်နှင့် ရောစပ်သောအခါ ကာဗွန် ရာခိုင်နှုန်းကို အပိုအလို မဖြစ်စေပဲ အံကိုက်ဖြစ်ရုံ အချိုးမှန်မှန်နှင့် ရောစပ်ရန် လိုလေသည်။ (သံနှင့် သံမဏိ — ရှု။)

သံချေးမတက် အစွန်းမထင်နိုင်သော အစွန်းခံ သတ္တုစပ်များ ပြုလုပ်ရာ၌ ကရိုမီယမ် သတ္တုသည် အရေးပါ အရာရောက်ဆုံးသော သတ္တုတခုဖြစ်၏။ သံချေးတက်၍သော်၎င်း၊ သံချေးစား၍သော်၎င်း သံနှင့် သံမဏိများသည် တနှစ်တနှစ်လျှင် တန်ချိန် သန်းပေါင်းများစွာ ပျက်စီးခဲ့ရလေသည်။ သို့သော် သံနှင့် သံမဏိများကို ကရိုမီယမ်၊ သို့မဟုတ် နစ်ကယ် ရောထားသော ကရိုမီယမ်နှင့် ရောစပ်လိုက်သောအခါ အလွန် အဖိုးတန်သော သတ္တုစပ်တခု ဖြစ်လာ၍ သံချေးတက်ခြင်း၊ သံချေးစားခြင်း၊ အက်ဆစ်စားခြင်းတို့ကို အလွန် ခံနိုင်ရည်ရှိလေသည်။ ဤသို့ ထူးကဲသော ဂုဏ်သတ္တိရှိသောကြောင့် သားလှီးဓားများ၊ ဂေါက်သီးရိုက်တံ ထိပ်ဖျားများ၊ တံခါးလက်ကိုင်ဖုများ၊ ကလောင်သွားများ၊ ရေ သို့မဟုတ် လေရဟတ်သွားများ၊ ခြောက်လုံးပူးနှင့် ရိုင်ဖယ် သေနတ် အစိတ်အပိုင်းများ၊ ငါးများတံများ၊ နာရီအိမ်များ၊ မျက်မှန်ဖောင် မျက်မှန်ကိုင်းများနှင့် အခြား အလားတူ ပစ္စည်းများကို ဤသတ္တုစပ်များဖြင့်ပြုလုပ်ကြလေသည်။

နစ်ကယ်နှင့် ကရိုမီယမ် သတ္တုနှစ်မျိုးကို ရောစပ်ထားသော သတ္တုစပ်သည် အလွန်ပြင်းသော အပူဒဏ်ကို ခံနိုင်ရည်ရှိ၏။ မည်မျှ အပူပြင်းသော်လည်း အလွယ်တကူနှင့် မလောင် ကျွမ်းနိုင်ချေ။ ထို့ကြောင့် အီလက်ထရစ် ရေးယေတာခေါ် လျှပ်စစ်ခေါက်ဖြင့် အပူငွေ့ပေးသော အပူငွေ့ပေး ခေါက်မီးဖိုများ အတွင်းရှိ အလွန်သေးငယ်သော နန်းကြိုးကို ဤသတ္တုစပ်ဖြင့် ပြုလုပ်ကြလေသည်။ ထိုနန်းကြိုးကလေးတွင် လျှပ်စစ်ခေါက်ကို ဖြတ်စေလိုက်သောအခါ နီရဲလာ၏။ သို့သော်လည်း ထိုနန်းကြိုးလေးသည် လောင်ကျွမ်းသွားခြင်းမရှိချေ။

သတ္တုနှစ်ခု၊ သို့မဟုတ် နှစ်ခုထက် ပို၍ ရောစပ်ထားသော သတ္တုစပ်သည် နဂိုသတ္တု သန့်သန့်တို့ထက် ပိုမို အသုံးဝင်ကြောင်းကို ရှေးမဆွကပင် သိရှိခဲ့ကြ၏။ ပုံပမာ—ကော့ပါး (ကြေးနီ) သတ္တု သန့်သန့်သည် အရာရာတိုင်းတွင် အသုံးပြုရန် များစွာ မသင့်လျော် လှသော်လည်း ဇင့် (သွပ်) နှင့် ရောစပ်၍ ကြေးဝါ သတ္တုစပ်ဖြစ်လာသောအခါ ကြေးနီထက် မာ၍ အလွယ်တကူနှင့် အရောင် မှိန်မသွားနိုင်ချေ။ ရွှေစင် ငွေစင်တို့သည် နဂိုအနေအားဖြင့် အလွန် ပျော့၍ ပွန်းပဲ့လွယ်၏။ သို့သော် အခြားသတ္တုများနှင့် အချိုးအမျိုးမျိုးဖြင့် ရောစပ်သောအခါ မူလကထက် မာလာလေသည်။ ပုံပမာ—ကျပ်သုံး ဒင်္ဂါးတွင် ငွေစစ်စစ် ၉၈.၂၅ နှင့် ကြေးနီ ၀.၇၅ ကို ရောစပ်ထားသောကြောင့် အသံသာ၏။ မာ၏။ လွယ်လွယ်နှင့်လည်း မပွန်းပဲ့နိုင်ချေ။

အလွန် အဖိုးတန်သော သတ္တုစပ်များကို ရှာကြံ လုပ်ကိုင်ခဲ့ရာတွင် အလျူမီနီယမ် သတ္တုစပ်သည် များစွာ အသုံးဝင်သည်ကို တွေ့ရလေသည်။ အထင်ရှားဆုံးသော အလျူမီနီယမ် သတ္တုရောမှာ ဒျူရာလျူမင်ပင် ဖြစ်သည်။ ဒျူရာလျူမင်တွင် အလျူမီနီယမ်နှင့် ကော့ပါး (ကြေးနီ)အပြင် မန်ဂနိနှင့် မက်ဂနီဇီယမ် အနည်းငယ် အချိုးကျ ရောနှောပါဝင်လျက်ရှိသည်။ ဤသတ္တုစပ်သည် အလွန် ပေါ့ပါး၍ ခိုင်မာသောကြောင့် လေယာဉ်ပျံများ တည်ဆောက်ရာတွင် များစွာ အသုံးပြုကြရလေသည်။ ဤသတ္တုစပ်၏ ထူးခြားချက် တရပ်မှာ ပူလာသောအခါ သတ္တိပို၍ပင် ကောင်းလာသေးသော အချက် ဖြစ်သည်။ ထို့ကြောင့် အပူကို ခံနိုင်ရည် ရှိရမည့် စက်များ လုပ်ကိုင်ကြရာတွင် ဤသတ္တုစပ်ကို အသုံးပြုကြ၏။ ယင်းသတ္တုစပ်ကို အခြေပြု၍ အခြား အလျူမီနီယမ် သတ္တုစပ်များပင် တစတစ ဖြစ်ပေါ်လာပေသေးသည်။

စက်မှုလုပ်ငန်း တိုးတက်လာသည်နှင့်အမျှ တွင်ခုံများလည်း အသုံးများလာရာ တွင်ခုံများတွင် အလွန် မာကျောခိုင်ခံ့သည့် သံမဏိ စူးဆောက်များ ရရှိရေးမှာလည်း တနေ့ထက်တနေ့ ပိုမို အရေးကြီးလာလေသည်။ ယခင်က ဆိုလျှင် စူးဆောက် တန်ဆာပလာများသည် သုံးဖန်များ၍ ပူလာသောအခါ ဆေးသားလျော့၍ သွားသဖြင့် အသွားများ ကြွေတတ်လေသည်။ ထိုကြောင့် ထိုကဲ့သို့မဖြစ်စေရန် စက်လည်သည့်နှုန်းကို လျော့ထားရသဖြင့် အလုပ်မှာ ကြန့်ကြာ သွားလေသည်။ သို့ရာတွင် ၁၈၆၈ ခုနှစ် လောက်မှစ၍ အဆိုပါ တန်ဆာပလာများ ပြုလုပ်ရန်အတွက် အလွန်ကောင်းသော သတ္တုစပ် တမျိုးကို တွေ့ရှိလာခဲ့လေသည်။ ထိုသို့ တွေ့ရှိမှုကြောင့် စက်မှုလုပ်ငန်းတွင် များစွာ အထောက်အပံ့ ရခဲ့ရုံမက ကမ္ဘာအရပ်ရပ်ရှိ သတ္တုလုပ်ငန်း တခုလုံးပင် တမျိုးတဖုံ ပြောင်းလဲသွားလေသည်။ ထိုသတ္တုစပ်မှာ အခြားမဟုတ် သံမဏိနှင့် တန်စတင်တို့ကို ရောစပ်ထားသော သတ္တုစပ်ပင် ဖြစ်လေသည်။ အလားတူ သတ္တုစပ် ရရှိရေးအတွက် သံမဏိနှင့် ရောစပ်ရန် အကောင်းဆုံးသော သတ္တုအချို့မှာ ကရိုမီယမ်၊ ဗနေဒီယမ်၊ ကိုဗော့၊ မန်ဂနိနှင့် မိုလစ်ဒီနမ်တို့ ဖြစ်ကြသည်။ ဤသတ္တုစပ်များသည် အလွန်မာ၍ အပူကိုလည်း အလွန် ခံနိုင်ရည်ရှိကြ၏။ ပဌမ ကမ္ဘာစစ်ကြီးအတွင်းက ဗြိတိသျှတို့တွေ့ရှိခဲ့၍ 'အထက်တန်း သံမဏိ' ဟု ခေါ်တွင်သော အမာဆုံး အကောင်းဆုံး အစား သံမဏိစပ် တမျိုးမှာ မိုလစ်ဒီနမ်၊ ကရိုမီယမ်၊ ဗနေဒီယမ်၊ ကာဗွန်နှင့် သံသန့်သန့်တို့ကို ရောစပ်ထားသော သတ္တုစပ်ဖြစ်လေသည်။

အချို့ တွင်ခုံများတွင် အသုံးပြုသော စိုးဆောက်များ၌ သံမဏိလုံးလုံးပင် မပါချေ။ ကရိုမီယမ်၊ တန်စတင်နှင့် ကိုဗော့တို့ကို အချိုးကျကျ ရောစပ်ထား၍ ရရှိသော စတဲလိုက် ခေါ် သတ္တုစပ်နှင့် လုပ်ထားသည့် ဆောက်အသွားများသည် မာရုံတွင်မက အပူပြင်းလာလေလေ မာလေလေ ဖြစ်လာသေး၏။ စိန်အပြင် အမာဆုံးသော သတ္တုစပ်မှာ တန်စတင်၊ ကာဗိုက်နှင့် ကိုဗော့တို့ ပါဝင် ရောစပ်ထား၍ ထိုသတ္တုစပ်ကို ကာဗိုလွိုင်ဟု ခေါ်၏။ သံမဏိနှင့် မန်ဂနိတို့ ရောစပ်ထားသော သတ္တုစပ်သည် အလွန်မာသောကြောင့် ကာဗိုလွိုင်စိုများ၊ ဆောက်များနှင့်သာ ဖြတ်နိုင်၏။ ထို့အတူ သံမဏိနှင့် မိုလစ်ဒီနမ်တို့ ရောစပ်ထားသော သတ္တုစပ်ကိုလည်း မအက်မကွဲနိုင်သောကြောင့် သေနတ်ပြောင်း အတွင်းခံအဖြစ်ဖြင့်၎င်း၊ လေယာဉ်ပျံထောက်များ၊ ရဟတ်ဝင်ရိုးများနှင့် သူခိုးအာမခံ သံမဏိသေတ္တာများ လုပ်ကိုင်ရာ၌၎င်း များစွာ အသုံးပြုကြလေသည်။

ကရိုမီယမ်သည် သတ္တုထဲတွင် အမာဆုံးသော သတ္တုတမျိုးဖြစ်၏။ ကရိုမီယမ်ကို သံမဏိနှင့် ရောစပ်လိုက်သောအခါ အလွန်မာသော သတ္တုစပ် တမျိုးကို ရ၍ အမြောက်ဆန် ကျည်ဆန်များ၊ ဗောဇယ်ရင်များ၊ သံချပ်ကာများ ပြုလုပ်ရာတွင် များစွာ အသုံးပြုကြ၏။ ထိုကရိုမီယမ်နှင့် သံမဏိ သတ္တုစပ်ထဲသို့ နစ်ကယ်ကို ထပ်မံရောစပ်၍ရရှိသော သတ္တုစပ်မှာလည်း အလွန်မာသဖြင့် မော်တော်ကား ဂီယာကဲ့သို့သော ပစ္စည်းများ ပြုလုပ်ရန်အတွက် များစွာအဖိုးတန်လေသည်။

စာပုံနှိပ်လုပ်ငန်းများတွင် အသုံးပြုသော ခဲ ပုံနှိပ်စာလုံးများသည် စိတ်ဝင်စားဖွယ်ကောင်းသော သတ္တုစပ်များဖြစ်ကြ၏။ ထို ခဲ ပုံနှိပ်စာလုံးများကို များသောအားဖြင့် ခဲနှင့် အန်တီမိုနီကို ရောစပ်ထားသော သတ္တုစပ်ဖြင့် လုပ်ထား၏။ တခါတရံ ခဲနှင့် အန်တီမိုနီတွင် တင်း (သံဖြူ) နှင့် ဗစ်စမတ်တို့ကိုပါ အနည်းငယ်ထည့်၍ ရောစပ်ထားလေသည်။ မည်သည့် ပစ္စည်းမဆို ပူလာလျှင် ကားထွက်လာ၍ အေးသွားလျှင် ကျုံ့ဝင်သွားစမြဲ ဖြစ်၏။ သို့သော် ပုံနှိပ်ခဲစာလုံးများလုပ်သော သတ္တုစပ်မှာကား ဤသို့မဟုတ်ပေ။ ကျိုထား၍ အရည်ဖြစ်နေရာမှ အေးသွားလျှင် ကားထွက်လာသဖြင့် ပုံသွင်းရာတွင် အလွန်ထင်ရှား ပြီးသော စာလုံးများကို ရလေသည်။

အခြား သတ္တုစပ်များမှာ ကော့ပါး (ကြေးနီ) နှင့် တင်း (သံဖြူ)တို့ကို ရောစပ်ထားသော ဗရွန်း (ကြေးညို)၊ ကော့ပါး(ကြေးနီ)၊ ဇင့်(သွပ်)နှင့် နစ်ကယ်တို့ကို ရောစပ်ထားသော ဂျာမန်ငွေ၊ တင်း(သံဖြူ)၊ ကော့ပါး(ကြေးနီ) နှင့် အန်တီမိုနီတို့ကို အထူး ရောစပ်ထားသော ဗာ့ဗစ် သတ္တုစပ်၊ တင်း(သံဖြူ)နှင့် လက်(ခဲ)တို့ကို ရောစပ်ထားသော ပျူတာ သတ္တုစပ်၊ တင်း၊ ဇင့်၊ ကော့ပါး၊ ဗစ်စမတ်၊ ဂိုး(ရွှေ)၊ ဆီးလဗား(ငွေ) စသည်တို့ဖြင့် ရောစပ်ထားသော ဂဟေများဖြစ်ကြ၏။ သေနတ်၊ အမြောက်လုပ် သတ္တုစပ်သည် ကြေးညိုတမျိုးပင် ဖြစ်၏။ မာကျူရီ (ပြဒါး)ဖြင့် ရောစပ်ထားသော သတ္တုစပ်များကိုမူ အမာလဂမ်ဟု ခေါ်၏။

သတ္တုစပ် အမျိုးပေါင်းမှာ ယခုအခါ အလွန်များပြားလာသော်လည်း အောက်တွင် ဖော်ပြထားသော သတ္တုများမှ ဖြစ်လာခြင်းသာ ဖြစ်သည်။ ထိုသတ္တုများမှာ များသောအားဖြင့် အလျူမီနီယမ်၊ အန်တီမိုနီ၊ အာစနစ်၊ ဗစ်စမတ်၊ ကက်ဒမီယမ်၊ ကာဗွန်၊ ကရိုမီယမ်၊ ကိုဗော့၊ ကော့ပါး(ကြေးနီ)၊ ဂိုး(ရွှေ)၊ အီရစ်ဒီယမ်၊ အိုင်းယန်း (သံ)၊ လက်(ခဲ)၊ မက်ဂနီဇီယမ်၊ မန်ဂနိ၊ မာကျူရီ (ပြဒါး)၊ မိုလစ်ဒီနမ်၊ နစ်ကယ်၊ ပလေဒီယမ်၊ ဖော့စဖောရပ်၊ ပလက်တီနမ်၊ ဆီလီကွန်၊ ဆီးလဗား (ငွေ)၊ သိုရီယမ်၊ တင်း (သံဖြူ)၊ တန်စတင်၊ ဗနေဒီယမ်၊ ဇင့် (သွပ်)တို့ ဖြစ်ကြသည်။

# ခေတ်ယဉ်ကျေးမှု တည်တံ့စေသော အခြေခံလုပ်ငန်း

**ရှေးအီဂျစ်တို့သည် ဘီစီ ၅၀၀၀ ခန့်ကပင် သတ္တုတွင်းတူးခြင်းကို ဦးစွာလုပ်ကိုင်ခဲ့ကြသည်။ သတ္တုရိုင်းရှာဖွေရေး၊ တူးဖော်ရေး၊ ထုတ်ယူရေး ဟူ၍ လုပ်ငန်းသုံးပိုင်းရှိသည်။ သတ္တုတူးဖော်ရာ၌ ကြုံရသော အခက်အခဲများ၊ သတ္တုတွင်းအလုပ်သမားများအတွက် ကာကွယ်ရေး၊ စက်များကို မြင်းကောင်ရေအားဖြင့် ပြောဆိုသုံးနှုန်းမှု၏အစ တို့ကိုပါ ဖော်ပြထားသည်။**

**သတ္တုတွင်း လုပ်ငန်း။** ။ကမ္ဘာပေါ်တွင် တိုးတက် ကြီးပွားလျက်ရှိသော နိုင်ငံများစွာတို့၌ လယ်ယာစိုက်ပျိုးရေးပြီးသည့်နောက် အဓိက လုပ်ငန်းမှာ သတ္တုတွင်း လုပ်ငန်းဖြစ်ကြောင်း တွေ့ရ၏။ ကျွန်ုပ်တို့သည် ခေတ်ယဉ်ကျေးမှုအဆင့်အတန်းနှင့် လျော်ညီစွာ နေထိုင်လိုလျှင် စက်ရုံကြီးများ အများအပြား လိုအပ်ပေရာ၊ ထိုသို့ လိုအပ်သော စက်ရုံကြီးများကို တည်ဆောက်နိုင်ရန် သတ္တုတွင်းလုပ်ငန်းရှိမှ ဖြစ်နိုင်ပေမည်။ ထို့ကြောင့် သတ္တုတွင်း လုပ်ငန်းသည် ယဉ်ကျေးမှုကို တည်တံ့စေသော အခြေခံလုပ်ငန်းတရပ်ဟူ၍ ဆိုနိုင်ပေသည်။

သတ္တုတွင်း လုပ်ငန်းကို သတ္တုရိုင်း ရှာဖွေခြင်း၊ တူးဖော်ခြင်း၊ သတ္တုထုတ်ယူခြင်း ဟူ၍ သုံးမျိုး ခွဲခြားနိုင်သည်။ သတ္တုတွင်း ရှာဖွေရာ၌ တယောက်စ နှစ်ယောက်စ ရှာဖွေသည်ဖြစ်စေ၊ သို့မဟုတ် အဖွဲ့အစည်းဖြင့် ရှာဖွေသည် ဖြစ်စေ ရှာဖွေသူတို့သည် သတ္တု အမျိုးမျိုးကို သိရှိရန် လိုသည့်အပြင် သတ္တုဗေဒ၊ ဘူမိဗေဒစသည့် ပညာရပ်များကို တတ်မြောက်ကြရလေသည်။ ဤပညာရပ်များကို တတ်မြောက်သူများပင်လျှင် တခါတရံ လချေး၊ အိုင်းယန်းဆာလဖိုဒ်ကဲ့သို့ သတ္တုရိုင်းများကို ရွှေ ဟူ၍ရင်း၊ ဂရက်ဖိုက်ကို မော်လစ်ဒီနိုက် ဟူ၍ရင်း အထင်မှားတတ်ကြလေသည်။ မြေမျက်နှာပြင်ပေါ်ရှိ ကျောက်များတွင် ကော့ပါး (ကြေးနီ)၊ အိုင်းယန်း(သံ)၊ မန်ဂနိ၊ မာကျူရီ (ပြဒါး)ကဲ့သို့ သတ္တုအစ အနများကို တွေ့ရသော်လည်း မြေအောက်သို့ တူးဖော်ကြည့်သောအခါ မည်သည့် သတ္တုကိုမျှ မတွေ့ရပဲရှိတတ်သည်။ တခါတရံ သောင်ခုတ်စက်များဖြင့် ပင်လယ်ကမ်းများနှင့် မြစ်ထဲရှိ သဲခုံများကို တူးရာ မည်းနက်သောသဲများကို ရရှိတတ်၏။ အချို့သူတို့သည် ထိုသဲမျိုးကို တွေ့ရှိသောအခါ ရွှေ၊ သို့မဟုတ် ပလက်တီနမ် အမြောက်အမြားတွေ့ရှိပြီဟု ထင်မှတ်တတ်ကြ၏။

သတ္တုရိုင်းကို ရှေးအခါက လူတို့သည် ခြေကျင်ဖြစ်စေ၊ မြင်း၊ လား၊ လှေ စသည်တို့ စီးနင်း၍ဖြစ်စေ တနေရာမှ တနေရာသို့ လှည့်လည်သွားလာ ရှာဖွေကြ၏။ ယခုခေတ်တွင်မူ ကားသယ်ယူပို့ဆောင်ရေး ကောင်းမွန်လာသည့် အလျောက် မော်တော်ကား၊ လေယာဉ်ပျံ စသည်ကဲ့သို့ ယာဉ်များကို အသုံးပြုလေ့ ရှိကြ၏။ သို့သော် ယခုခေတ်တွင် မော်တော်ကားဖြင့် သတ္တုများရှာဖွေခြင်းသည် စားနပ်ရိက္ခာများကို တင်ယူနိုင်ခြင်း၊ ဝန်များကို သယ်ယူပို့ဆောင်နိုင်ခြင်း၊ သတ္တုရှာဖွေရာ၌သုံးသည့်စက်ငယ်များကို မော်တော်ကားစက်ဖြင့် မောင်းနှင်နိုင်ခြင်းတို့ကြောင့် ခရီးအရောက်ဆုံးဖြစ်၏။ ဤသို့ သတ္တုအရှာထွက်သူတို့သည် ပေါက်ချွန်း၊ ဂေါ်ပြား၊ တူ၊ စူး၊ ဒိုင်းနမိုက်၊ သံဒယ် (မိုက်ခွက်)၊ ကျိတ်ဆုံ အစ ရှိသည်တို့ကို ယူဆောင်သွားကြရ၏။ ကျိတ်ဆုံမှာ သတ္တုရိုင်းများကို ကျိတ်ရန် ဖြစ်၍ သံဒယ်မှာ ကျိတ်ထားသော သတ္တုရိုင်းမှ ကျောက်ခဲငယ်များကိုဆေးကြောပစ်ရန်ဖြစ်သည်။ သတ္တုရိုင်းများကို အကြမ်းဖြင်းအားဖြင့် စစ်ဆေးကြည့်ရန် လက်ကိုင်နှင့် မှန်ဘီလူးသည်လည်း အလွန်အသုံးဝင်၏။ အချို့သော တိုင်းပြည်များတွင် အများနှင့် သက်ဆိုင်သည့် မြေများ၌ တနှစ်လျှင် အနည်းဆုံး လုပ်ငန်း မည်မျှပြီးမြောက်အောင် ပြုလုပ်ရမည်ဟု စည်းကမ်းချက်ဖြင့် သတ္တုရှာဖွေသူတို့အား ခွင့်ပြုထားလေသည်။ အကယ်၍ ထိုသို့ခွင့်ပြုထားသော မြေပေါ်တွင် အလုပ်ကို တနှစ်မျှ ရပ်ဆိုင်းထားခဲ့သော် ထိုမြေကို အခြားသူတယောက်က ဝင်ရောက် လုပ်ပိုင်ခွင့်ရှိလေသည်။

တခါတရံ သတ္တုကြောများတွင် အကြောတက်ငယ်များဖြာထွက်လျက် ရှိတတ်ရာ ဤအတက်ငယ်များတွင် မြေကတုတ်ကဲ့သို့ မြောင်းများ ဖြတ်၍တူးပေးလျှင် သတ္တုကြောမကြီးကို တွေ့ရတတ်၏။ ဤနည်းဖြင့် သတ္တုရှာသူတို့သည် သတ္တုတွင်းများစွာကို တွေ့ရှိခဲ့ကြလေသည်။တခါတရံသတ္တုအကြော အတက်ငယ်သည် တောင်ကုန်းတွင် ဦးတိုက်လျက်ရှိခြင်းကြောင့် သတ္တုရိုင်းများမှာ ရေစားပြီးပါသွား၍သတ္တုရိုင်း အရိပ်အရောင်မျှကိုသာ တွေ့ရတတ်သည်။ ဤသို့ တွေ့ရှိသောအခါ အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း မြေတွင်မြောင်းဖောက်၍ သတ္တုကြောကို ရှာဖွေယူရသည်။ သတ္တုကြောကို တွေ့ရှိသောအခါ သတ္တုမည်မျှရှိကြောင်းကို သိရှိရန် စမ်းသပ်ကြည့်ရပြန်သည်။ များသောအားဖြင့် ထိုသို့စမ်းသပ်နည်းမှာ နှစ်နည်းရှိရာ ပဌမနည်းမှာ သတ်မှတ်ထားသော နယ်နိမိတ်အတွင်းရှိ မြေကို တူးဖော်၍ ထိုမြေတွင်သတ္တုမည်မျှ ပါရှိသည်ကို စစ်ဆေးသောနည်း ဖြစ်သည်။ ဒုတိယနည်းမှာ မြေတွင်းသို့ နက်ရှိုင်းစွာ တူးဖော်၍ မြေ၏အတွင်းသားတွင် သတ္တုမည်မျှ ပါရှိသည်ကို စစ်ဆေးသောနည်းဖြစ်သည်။ ဒုတိယနည်းတွင် စိန်သွားတတ်ထားသောလွန်စက်ဖြင့် မြေထဲသို့ အလွန်နက်ရှိုင်းစွာ ထိုးဖောက်ကြည့်ကြလေသည်။ ထိုသို့ စမ်းသပ်၍ သတ္တုများကို တူးဖော်နိုင်လောက်အောင် များများစားစား တွေ့ရှိရသောအခါသတ္တု



သတ္တုရိုင်းများရှာဖွေရာတွင် အလွန်အင်အားကောင်းသော ရေပန်းကြီးများကိုလည်း အသုံးပြုရသည်။

တွင်းဝ အနီးအနားတွင် အဆောက်အအုံများကို သပ်ရပ်စွာ ဆောက်လုပ်၍ သတ္တုတူးဖော်သော လုပ်ငန်းကို စတင်၍ လုပ်ကိုင်ကြလေသည်။

သတ္တု တူးဖော်ရာ၌ မြေပေါ် တူးဖော် နည်းနှင့် မြေအောက် တူးဖော်နည်း ဟူ၍ အဓိကနှစ်မျိုး ရှိ၏။ မြေပေါ် တူးဖော်နည်းတွင် သတ္တုများကို ရေတွင်းများ တူးသကဲ့သို့ တူးယူကြရ၍ များသောအားဖြင့် ဤနည်းကို သံနှင့် ကြေးနီ တူးဖော်ရာ၌ အသုံးများသည်။ သတ္တုကြောသည် မြေအောက် ပေ ၃၀၀ ကျော်လောက်မှာ ရှိလျှင် သတ္တုရိုင်းကို မြေပြင်ပေါ်သို့ တင်ယူရသော စရိတ်မှာ အလွန်ကြီးလေးသဖြင့် မြေပေါ် တူးဖော်နည်းကို အသုံးပြုကြသည်။ ဤနည်းတွင် သတ္တုရိုင်းများကို ဒိုင်းနမိုက်ဖြင့် ဖို့ခွဲ၍ စက်ဂေါ်ပြားများဖြင့် မော်တော်ကားများပေါ်သို့ တင်ဆောင်ပေးလေသည်။ သို့သော် တွင်းနက်လာသောအခါ နံရံတွင် ရှိသည့် ကျောက်တုံးများ ပြိုကျ၍ အလုပ်သမားများ ဒဏ်ရာ ရရှိတတ်ကြသည်။ ရေဖြင့် ကျင်ယူသော နည်းမှာလည်း မြေပေါ် တူးဖော်နည်းတွင် အကျုံးဝင်သည်။ ဤနည်းကို ရွှေနှင့် ငွေတို့ကဲ့သို့သော သတ္တုများ တူးဖော်ရာ၌ အသုံးပြုသည်။ သတ္တုရိုင်းကို ရေဖြင့် ကျင်ယူနည်းမှာ အမျိုးမျိုးရှိသော်လည်း သဘောမှာ တမျိုးတည်း ဖြစ်သည်။

မြေအောက်တူးဖော်နည်းတွင် သတ္တုကြော၏ အထူအပါးကို လိုက်၍ အမျိုးမျိုး တူးဖော်ယူကြသည်။ သတ္တုရိုင်းများကို တွင်းများမှ မြေပြင်ပေါ်သို့ တင်ဆောင်ယူရသော စရိတ်သည် အလွန်ကြီးမားလွန်းရကား သတ္တုကို တူးဖော်ရာ၌ စရိတ်ကျဉ်းနိုင်သမျှ ကျဉ်းအောင် ကြံစည်ကြရသည်။ ကျောက်ကမ်းပါးများနှင့် နီးကပ်သော တွင်းများတွင် သတ္တုရိုင်း သယ်ဆောင်ရာ၌ လွယ်ကူစေရန် လိုဏ်ခေါင်းများကို ဆောက်လုပ်ယူကြသည်။ အချို့သော သတ္တုရိုင်းများကို ကျောက်မီးသွေးတွင်းများမှာကဲ့သို့ ပြွန်တွင်းများဖြင့် တူးဖော်ယူကြရလေသည်။ သတ္တုတွင်းများကို ပြွန်ပုံတူးယူခြင်းမှာ လေးထောင့်ပုံ တွင်း၏ နံရံများထက် ပြွန်ပုံတွင်း၏ နံရံများက ခိုင်မာသောကြောင့် ဖြစ်သည်။ သို့သော် မြေမာသော အရပ်၌ တခါတရံ လေးထောင့်ပုံ တွင်းများကို တွေ့ရတတ်သည်။

သတ္တုတွင်း တူးရာ၌ တွေ့ကြုံရသည့် အခက်အခဲတခုမှာ ကျောက်လွှာတွင် ရှိသည့် အကွဲ အအက်များနှင့် သံနုံး များမှ ရေထွက်ခြင်းပင် ဖြစ်သည်။ ထိုကြောင့် သံနုံးများ တွင် ပြွန်တွင်းများ တူးလိုသောအခါ မတူးမီ လပေါင်း များစွာက ကြိုတင်၍ တွင်းဝတဝိုက် ပေအနည်းငယ် ကွာ သော နေရာများတွင် ပိုက်လုံးများကို မြှုပ်၍ ရေခဲထက် အေးသော ဆားရေကို လှည့်ပတ်လျက် ရှိနေစေသည်။ နုံးထဲရှိ ရေသည် ခဲလောက်သည့် အခြေသို့ ရောက်ရှိသော အခါ တူးဖော်ခြင်း စတင်တော့သည်။ ဤသို့ တူးနေစဉ် တူးပြီးသော နေရာများတွင် တွင်း၏ နံရံကို မြေအောက် မီးရထား လိုဏ်ခေါင်းများမှာကဲ့သို့ အင်္ဂတေကိုင်၍ ဖြစ်စေ၊ သံကွင်းများ ခံ၍ဖြစ်စေ ခိုင်ခံ့အောင် ပြုလုပ်ပေးလေ သည်။ တခါတရံ ကျောက်ကြားမှ ထွက်နေသော ရေကို ပိုက်လုံးများ မြှုပ်၍ အင်္ဂတေကို ဖိအား ကြီးစွာဖြင့် သွန်း လောင်းပြီးလျှင် ပိတ်ဆို့ ပစ်တတ်သည်။ ပြွန်တွင်း၏ အဆုံး ဖက်တွင် ရေ ဝင်ရောက်စုရုံးနေနိုင်အောင် ကန်ကျယ်ကြီး တခု ပြုလုပ်ထားရသည့်ပြင် ပြွန်တွင်းရှိ အင်္ဂတေနံရံများကို ပြိုမကျရအောင် ထောက်များဖြင့် ခိုင်ခိုင်ခံ့ခံ့ ထောက်ထား ရသည်။ ပြွန်တွင်းများမှ တဖန် လိုဏ်ခေါင်းများကို ဘေး တိုက် သတ္တုကြောဆီသို့ ရောက်အောင် တူးယူပြန်သည်။ ဤသို့ တူးယူသော လိုဏ်ခေါင်းများသည် ပြွန်တွင်းဖက်သို့ ခပ်စောင်းစောင်းရှိသဖြင့် သတ္တုတွင်းတွင် ထွက်သမျှ ရေ သည် ပြွန်တွင်းထဲသို့ စီးဝင်လာသည်။ ပြွန်တွင်းမှတဖန် ထို ရေကို အားကောင်းသော ရေနွေးငွေ့စက်များဖြင့် မြေပြင် ပေါ်သို့ စုတ်ထုတ်ပစ်လေသည်။

များသောအားဖြင့် သတ္တုတွင်းတတွင်းလျှင် ပြွန်ပေါက် နှစ်ပေါက်စီဖောက်ထားလေ့ရှိကြသည်။ ဤသို့ ဖောက်ထား ခြင်းမှာ သတ္တုတွင်း ပြိုကျ၍ အလုပ်သမားများ ပိတ်မိမနေ စေရန်နှင့် သတ္တုတွင်းထဲ၌ လေကောင်းလေသန့် ရရှိစေရန် ဖြစ်သည်။ သတ္တုတွင်းများတွင် အဆိပ်ငွေ့များ ထွက်တတ် ခြင်းကြောင့်၎င်း၊ သတ္တုတွင်းများနက်လာသောအခါ အပူ အား ကြီးလာသောကြောင့်၎င်း အလုပ်သမားများ တာ ရှည်လေးမြင့် အလုပ် လုပ်နေနိုင်ရန် လေကောင်းလေသန့် မြောက်မြားစွာကို သွင်းပေးဖို့ အရေးကြီးလေသည်။ များ



ခဲဖမ်းယင်းဖုံးတလျှောက် ခဲမှုန်များ အနည်ထိုင်ကျန်ခဲ့၍ သဲများသာ ရေစီးနှင့်ပါသွားသည်။

သောအားဖြင့် သတ္တုတွင်းများတွင် လေကောင်းလေသန့် ဝင်ရောက်စေသောနည်းမှာ ပြွန်တွင်း တဖက်မှ မသန့်ရှင်းသော လေများကို အလွန်ကြီးမားသော ယပ်များဖြင့် ယပ်ပေးပြီး ထုတ်ပစ်သောနည်းဖြစ်သည်။ ဤသို့ ပြွန်တဖက်မှ လေကို ထုတ်ပစ်လိုက်သောအခါ အခြားပြွန်တဖက်မှ လေထပ်တလဲလဲ ဝင်ရောက်လာသဖြင့် သတ္တုတွင်း၌ အလုပ်လုပ်လျက်ရှိသော အလုပ်သမားများအား လေကောင်း လေသန့်ကို ရရှိစေသည်။

အချို့သတ္တုတွင်းများ၌ အလုပ်သမားများ ကောင်းမွန်စွာ အလုပ်လုပ်နိုင်ရန်သတ္တုတွင်းရှိ လိုဏ်ခေါင်းတွင် လျှပ်စစ်ဓာတ်မီး ထွန်းထားလေ့ရှိကြသည်။ လျှပ်စစ်ဓာတ်မီး မရှိသော တွင်းများတွင်မူကား ဖယောင်းတိုင် မီးကို ဖြစ်စေ၊ ခေါင်းတွင် တပ်ဆင်နိုင်သော မီးအိမ်ငယ်ကို ဖြစ်စေ၊ သတ္တုတွင်းများတွင် ပေါက်ကွဲတောက်လောင်မှု မဖြစ်ရအောင် အထူးတလည် စီမံပြုလုပ်ထားသော မီးအိမ်ကိုဖြစ်စေ အသုံးပြုကြသည်။ သတ္တုရိုင်းများကို တူးဖော်ရာ၌ အလုပ်တွင်ကျယ်စေရန် စက်ဖြင့် မောင်းနှင်သော ကရိယာများကို အသုံးပြုသည်။ သတ္တုရိုင်းများဖြတ်ယူရန် သုံးသော ကရိယာများမှာ အမျိုးမျိုးရှိသည်။ အချို့သော ဖြတ်စက်များမှာ အပြားလိုက် မြေပြင်ညီ လည်သော လွှဝိုင်းများဖြစ်သည်။ အချို့မှာ လည်နေသော သံချွန်များ ဖြစ်သည်။ အကယ်၍ သတ္တုများကို အလွယ်တကူ တူးဖော်၍မရသောအခါ သတ္တုရိုင်းတွင် စက်လွန်ဖြင့် အပေါက်ငယ်များ ဖောက်၍ ထိုအပေါက်များတွင် ယမ်းဘီလူးများ မြှုပ်နှံပြီးလျှင် လျှပ်စစ်ဓာတ်ဖြင့် ဖြိုခွဲယူကြသည်။ သတ္တုကိုဖြတ်ရန် စက်များနှင့် ဖောက်ရန် စက်များတွင် ဘီးများ တပ်ဆင်ထားသဖြင့် တနေရာမှတနေရာသို့ အလွယ်တကူ ရွှေ့ယူနိုင်သည်။

ဤသို့ ဖြိုခွဲပြီးသောအခါ သတ္တုရိုင်းများကို ရှေးအခါက လှည်းပေါ်တွင်တင်၍ မြင်းများဖြင့် သယ်ဆောင်ကြရလေသည်။ လူတထောင် အလုပ်လုပ်သော သတ္တုတွင်းတတွင်း၌ လူ ၅၀၀ သာလျှင် သတ္တုများကိုတူး၍ သယ်ဆောင်လျက်ရှိကြသည်။ကျန်လူများမှာ သတ္တုတွင်း၌ ရာပေါင်းများစွာသော မြင်းတို့ကို ကြည့်ရှုခြင်း၊ လေကောင်းလေသန့် ဝင်ရောက်နိုင်အောင် စီမံပေးရခြင်း၊ရေပိုက်များဖြင့် ရေကိုစုတ်ထုတ်ပစ်ရခြင်း၊သတ္တုတွင်း၌ လမ်းများကို ပြုစုစောင့်ရှောက်ရခြင်း၊ စက်များကို မောင်းနှင်ရခြင်းစသော ဝေယျာဝစ္စအလုပ်များကို ဆောင်ရွက်ကြရလေသည်။ စက်ဖြင့် သတ္တုရိုင်းများကို သယ်ယူပို့ဆောင်ကြသော တွင်းများ၌မူကား တူးပြီးသား သတ္တုရိုင်းများကို တူးနေသော နေရာမှနေ၍ စက်ဖြင့်မောင်းနှင်သော ဝန်တင်ရထားငယ်များဖြင့် သယ်ဆောင် ယူသွားကြပြီးလျှင် တနေရာ၌ စုပုံ၍ ထိုနေရာမှ တဖန် မြေပြင်ပေါ်သို့ တင်ပေးသည်။ ဤစက်များကို လေဖိအားဖြင့် ဖြစ်စေ၊ လျှပ်စစ်ဓာတ်ဖြင့်ဖြစ်စေ မောင်းနှင်ကြသည်။

ရှေးအခါက သတ္တုတွင်းများတွင် အကြီးဆုံးရန်သူမှာ ရေဖြစ်သည်။ သတ္တုတွင်းများကိုတူးဖော်တိုင်း ရေမှာ အနည်းနှင့်အများ ဆိုသလို ထွက်လာစမြဲ ဖြစ်သည်၊ ရေကို နိုင်နိုင်နင်းနင်း ထုတ်ပစ်နိုင်သရွေ့ ကာလပတ်လုံးသာ သတ္တုတူးဖော်ခြင်းကို လုပ်ကိုင်ကြရ၍ ရေကို မနိုင်မနင်း ဖြစ်လာသည်နှင့် တပြိုင်နက် သတ္တုတူးဖော်ခြင်းကို ရပ်စဲကြရလေသည်။ ထိုခေတ်အခါက ရေကိုထုတ်ပစ်ရန် စက်မပေါ်သေးသဖြင့် မြင်းများဖြင့်သာ ထုတ်ပစ်ခဲ့ကြရသည့်အလျောက် ခရီးမတွင်သည့်အတွက် အဖိုးတန်သော သတ္တုတွင်းများစွာတို့မှာ ရေမြုပ်ကုန်လေသည်။ ရေနွေးငွေ့အင်ဂျင်စက် ပေါ်လာသောအခါ ရေစုတ်စက်များလည်း ပေါ်လာ၍ သတ္တုတွင်း လုပ်ငန်းမှာ ရှေးကထက် တွင်ကျယ်လာခဲ့သည်။ ရေနွေးငွေ့စက်ကို သုံးစွဲလာကြသောအခါ စက်တစက်သည် မြင်းအကောင်ရေ မည်မျှနှင့် ညီအောင် အလုပ်လုပ်နိုင်ကြောင်းကို တွေ့ရှိခဲ့ကြသည်။ ထိုသို့ တွေ့ရှိခဲ့သည်မှ အစပြု၍ လူတို့သည် စက်များကို မြင်းကောင်ရေအားဖြင့် ပြောဆိုသုံးစွဲခဲ့ရာ ထိုသို့ သုံးစွဲသည့် အလေ့အထမှာ ယနေ့တိုင်အောင် တည်မြဲလျက်ရှိသည်။ ယခုခေတ်တွင် ရေကို စုတ်ထုတ်ပစ်ရန်နှင့် သတ္တုရိုင်းများကို သယ်ယူပို့ဆောင်ရန် လေဖိအားနှင့် လျှပ်စစ်ဓာတ်အားကို အသုံးပြုကြသည်။ အချို့တွင်းများတွင် ရေအထွက် အလွန်များသောကြောင့် ရေစုတ်စက်များကို ဆဲ့နှစ်ရာသီ ခုတ်မောင်းနေရသည်။အကယ်၍ အကြောင်းတခုခုကြောင့် သတ္တုတွင်းကို ပိတ်ထားရသည်ဟု ဆိုကြပါစို့။ သတ္တုတွင်းမှာ သုံးမရ နိုင်လောက်အောင် ပျက်စီးမသွားစေရန် ရေကိုမူ အမြဲတမ်းစုတ်ထုတ်ပစ်လျက် ရှိရပေသည်။

သတ္တုတွင်း အလုပ်ချိန် စေ့သောအခါ အလုပ်သမားများသည် မိမိတို့၏ ကရိယာများကို အလုပ်ခွင်၌ပင် သော့ခတ်ထားခဲ့ပြီးလျှင် မီးအိမ်နှင့် အဝတ်အစားများကို သိမ်းယူ၍ ပြန်ကြလေသည်။ ထိုအခါ အခြား အလုပ်သမားတဆိုင်း ရောက်လာ၍ အလုပ်ကို ဆက်လုပ်ကြပြန်သည်။ နေ့ရောညဥ့်ပါ အလုပ် လုပ်သော သတ္တုတွင်း များတွင် အလုပ်ကို လူလဲဖြင့် တနေ့လျှင် သုံးဆိုင်းထား၍ လုပ်ကိုင်ကြလေသည်။ များသောအားဖြင့် ပဌမအဆိုင်းမှာ နံနက် ၇ နာရီမှ ညနေ ၃ နာရီအထိဝင်း၊ဒုတိယအဆိုင်းမှာ ညနေ ၃ နာရီမှ ညဥ့် ၁၁ နာရီအထိဝင်း၊တတိယအဆိုင်းမှာ ညဥ့် ၁၁ နာရီမှ နံနက် ၇ နာရီအထိဝင်း ဖြစ်သည်။ တနလ်ာနေ့ နံနက်မှ တရက်လျှင် ၂၄ နာရီကျ အလုပ် လုပ်လာ ခဲ့ကြသည်မှာ စနေနေ့ နေ့လည် ကျမှပင် သတ္တုတွင်းတူးသော လုပ်ငန်း ခေတ္တရပ်နားတော့သည်။ သို့သော် ရေစုတ်စက်

များမှာ လည်မြဲလည်လျက် ရှိသည့်ပြင် သတ္တုတွင်းတွင် သတ္တုတူးချိန်၌ မလုပ်နိုင်သော လုပ်ငန်းများ ဖြစ်သည့် စက်များကို ပြင်ဆင်မှု၊ လိုဏ်ခေါင်း အမိုးများကို ခိုင်မာ တောင့်တင်းအောင် ဖာထေးမှု၊ လမ်းများကို ပြင်ဆင်မှု စသည်များကို ပြုလုပ်ကြရလေသည်။

သတ္တု တူးဖော်ခြင်း လုပ်ငန်းမှာ အလွန် ရှေးကျသော လုပ်ငန်းတရပ်ဖြစ်သည်။ ယခုအခါ ကမ္ဘာပေါ်ရှိ အချို့သော အရပ်ဒေသများတွင် ရှေးအခါက သတ္တုတူးဖော်ရာ၌ အသုံးပြုကြသည့် လိုဏ်ခေါင်းများ၊• ဖိုများ၊ လိုများနှင့် အခြား အသုံးအဆောင်များကို တွေ့ရှိရတုန်းပင် ဖြစ်သည်။ အီဂျစ်လူမျိုးတို့သည် ဘီစီ ၅,၀၀၀ ကပင် ဆိုင်နိုင်းအရပ်မှ ကြေးနီကို တူးဖော်သုံးစွဲခဲ့ကြသဖြင့် ကမ္ဘာပေါ်တွင် သတ္တုတူးဖော်ခြင်း လုပ်ငန်းကို ပဌမဆုံး လုပ်ခဲ့သည်ဟု ဆိုရပေမည်။ ထိုအခါက သတ္တုတွင်းတူး လုပ်ငန်းမှာ အောက်တန်းကျသည်ဟု ထင်မှတ်ကာ ငွေဝယ်ကျွန်များဖြင့်သာ တူးဖော်လုပ်ကိုင်ခဲ့ကြသည်။ ယခုခေတ်တွင်မူကား သတ္တု၏အသုံးဝင်ပုံ များပြားလာသည့်အလျောက် သတ္တုတွင်း လုပ်ငန်းသည်လည်း ကြီးကျယ် လာပြီးလျှင် စံနစ်တကျဖြစ်လာရလေသည်။ လူတို့သည် မြေထဲမှ သတ္တုများကို အသုံးပြုကြသည်မှာ အစမျှသာ ရှိသေး၍ နောင်အခါ၌ ယခုထက်ပင်တိုးတက်သုံးစွဲလာကြမည်ဟု ယုံကြည်ရသည်။ ထို့ကြောင့် သတ္တုတွင်းနှင့်စပ်လျဉ်း၍ ကျွမ်းကျင် တတ်မြောက်သူများနှင့် သတ္တုတွင်း တူးခြင်းဆိုင်ရာ အင်ဂျင်နီယာ အတတ်ပညာကို သင်ကြားတတ်မြောက်ထားသူများမှာ နောင်အခါ၌ အလွန်ကြီးပွား တိုးတက်ရန် လမ်းရှိပေသည်။

**သတ္တုဗေဒ။** ။တွင်းထွက်သတ္တု ကျောက်ရိုင်းများမှ သတ္တုများကို ထုတ်ယူ၍ အသုံးပြုရန် လုပ်ကိုင်ခြင်းကို သတ္တုဗေဒဟု ခေါ်သည်။ သတ္တုဗေဒ၏ ကျေးဇူးကြောင့်သာလျှင် ကျွန်ုပ်တို့သည် အသုံးအဆောင် ပစ္စည်းများကို သတ္တုဖြင့် ပြုလုပ် သုံးစွဲနိုင်ခဲ့ကြသည်။ သတ္တုသည် အိမ်များနှင့် စက်ရုံအလုပ်ရုံများသို့ လျှပ်စစ်ဓာတ်ကို သယ်ယူပို့ဆောင်ပေးသည့် အပြင် အလွန်မြင့်မားသော တိုက်တာ အဆောက်အအုံကြီးများအတွက် အမာခံဗောင်များကိုရရှိစေသည်။ မော်တော်ကား၊ မီးရထားနှင့်လေယာဉ်ပျံများကို သတ္တုဖြင့်ပြုလုပ်ယူကြသည်။ ကျွန်ုပ်တို့ အသုံးပြုလျက်ရှိသော ကရိယာ တန်ဆာပလာများကိုလည်း သတ္တုဖြင့် ပြုလုပ်ကြသည်။ ယခုခေတ်ယဉ်ကျေးမှုအဆင့်အတန်းသည် သတ္တုမပါရှိက တည်တံ့နေနိုင်မည်မဟုတ်ပေ။ ဤသို့အလွန်အရေးကြီးသော သတ္တုဗေဒကို ထုတ်ယူရေးသတ္တုဗေဒနှင့် လုပ်ကိုင်ရေး သတ္တုဗေဒဟူ၍နှစ်ပိုင်းခွဲခြားထားလေသည်။

ထုတ်ယူရေး သတ္တုဗေဒ ဆိုသည်မှာ သတ္တုကျောက်ရိုင်းများမှ သတ္တုကို ထုတ်ယူပြီးလျှင် သတ္တုစင် အဖြစ်ရအောင် ချွတ်ပေးခြင်းကို ခေါ်သည်။ ဤအပိုင်းတွင်သတ္တုကျောက်ရိုင်းများကို ခွဲကြိတ်ခြင်း၊ လှော်ခြင်း၊ စုခဲသွားအောင် မီးတိုက်ပေးခြင်း၊ အရည်ကျိုခြင်း၊ စစ်ထုတ်ခြင်း၊ လျှပ်စစ်ဖြင့် ဓာတ်ခွဲခြင်း၊ ပြဒါးသတ္တုစပ်ဖြစ်အောင် ပြုလုပ်ပေးခြင်းနှင့် မီးပြင်းတိုက်ခြင်းတို့ ပါဝင်သည်။

တွင်းထွက် သတ္တုရိုင်းများမှ ပဌမဦးစွာ အညစ်အကြေးများကို တတ်နိုင်သမျှ ထုတ်ပစ်ရသည်။ ထုတ်ပစ်နည်းမှာ သတ္တုကျောက်ရိုင်းများကို များသောအားဖြင့် ကြိတ်ချေလိုက်ရသည်။ ထိုအခါ သတ္တုကျောက်ရိုင်းတွင်ရှိသောသတ္တုနှင့်တကွ၊ သတ္တု မဟုတ်သည့် ပစ္စည်း များသည် အညစ်အကြေးများနှင့် တခြားစီ ကွဲထွက်ကုန်သည်။ ထိုနောက် အညစ်အကြေးများကို ရေနှင့် ဆေးထုတ်လိုက်ရသည်။ယင်းသို့ ဆေးထုတ်လိုက်ခြင်းအားဖြင့် သတ္တုထုတ်ယူရာ၌ ကိုင်တွယ်ရမည့် သတ္တုရိုင်း၏ အရွယ်ပမာဏမှာ• အလွန်လျော့နည်းသွားလေသည်။

သတ္တု ကျောက်ရိုင်း များကို လှော်ပေး ရသည့် အကြောင်းမှာ ကန့်ကဲ့သို့သော အညစ် အကြေး များကို ထုတ်ပစ်ရန်ဖြစ်သည်။ သတ္တုကျောက်ရိုင်းကို လှော်ပေးလိုက်သောအခါ ကန့်နှင့် အခြား အညစ်အကြေး များသည် လေထဲရှိ အောက်ဆီဂျင်နှင့် ပေါင်းကာ ဓာတ်ငွေ့ဖြစ်ပြီး ထွက်သွားတော့၏။

သတ္တုကျောက်ရိုင်းများကို လှော်ပေးရင်း အပူချိန်အလွန်တက်လာသောအခါ စုခဲလာလေသည်။ ပဌမတွင် သတ္တုရိုင်း အမှုန်များ အရည်ပျော်သွား၍ စုခဲလာပြီးလျှင် အတုံးအခဲကြီးများ ဖြစ်လာလေသည်။ ဤအတုံးအခဲများကား နောက်တဆင့် လုပ်ရမည့် လုပ်ငန်းနှင့် အလွန်သင့်လျော်ပေသည်။

သတ္တု ကျောက်ရိုင်းများကို ကြိတ်ချေခြင်း၊ လှော်ခြင်း၊ စုခဲအောင် ပြုလုပ်ပေးခြင်း စသော လုပ်ငန်းများပြီးဆုံးသောအခါ သတ္တုကိုထုတ်ယူသည့်လုပ်ငန်းစတော့၏။ သတ္တုကို ထုတ်ယူရာတွင် အညစ်အကြေးများ ထွက်သွားအောင် ကျိုပေးရသည်။ အကယ်၍ သတ္တုသည် သံဖြစ်လျှင် သတ္တုကျောက်ရိုင်းကို လေပြင်းမီးဖိုတွင် ထည့်၍ ပြင်းစွာ အပူတိုက်ပေးရသည်။ ထိုသို့ အပူတိုက်သော အခါ သတ္တုကျောက်ရိုင်းနှင့်အတူ ကုတ်မီးသွေးနှင့် ထုံးကျောက်တို့ကိုလည်း ထည့်ပေးရသည်။ မီးဖိုတွင် အပူချိန်ကိုမြှင့်တင်ပေးသောအခါ ကုတ်မီးသွေးမှာ မီးလောင်သွားပြီးလျှင် ကာဗွန်မွန်အောက်ဆိုက် ဓာတ်ငွေ့အဖြစ် ထွက်လာ လေသည်။ ကာဗွန်မွန်အောက်ဆိုက်သည် သံတွင်ပါရှိသော အောက်ဆီဂျင်နှင့် ပေါင်းစပ်ကာ သံကို သန့်စင်အောင် ပြုလုပ်ပေး

သည်။ အခြား အညစ် အကြေးတို့သည် အလွန် ပြင်းထန်သော အပူချိန်ကြောင့် အရည်ပျော်ပြီးလျှင် ထုံးကျောက်နှင့် ပေါင်းစပ် သွားလေသည်။ ယင်း အညစ်အကြေးများသည် သံရည်ထက် ပေါ့ရကား ချော်အဖြစ်နှင့် အပေါ်ယံသို့ တက်၍ မျောနေလေသည်။ ထိုချော်များကို သံရည်အပေါ်ပိုင်း မီးဖိုဘေးဖက်ရှိ အပေါက်များမှ မကြာမကြာ ထုတ်ပစ်ရလေသည်။ ဖိုတွင် ကျန်ရစ်သည့် အရည် ပျော်နေသော သံတွင် အညစ်အကြေးများ လုံးဝ ကင်းစင်သည် မဟုတ်သေးပေ။ သို့သော်လည်း သတ္တုကျောက်ရိုင်းမှ သံအားလုံးကိုကား ထုတ်ယူပြီး ဖြစ်လေသည်။ ထို့ကြောင့် သတ္တုကို သန့်သည်ထက် သန့်အောင် လုပ်ပေးရသေးသည်။

အထက်ပါအတိုင်း သတ္တုကျောက်ရိုင်းမှထုတ်ယူထားသော သတ္တုကို ဓာတ်အဖျော်ပစ္စည်းတခုခုနှင့် အရည်ပျော်စေသည်။ ထိုနောက် ထိုအရည် ပျော်နေသော အရည်မှ တဖန် အနည်ထိုင်စေသော နည်းဖြင့် သတ္တုကို ပြန်ထုတ်ယူပြန်သည်။ ပုံပမာ သတ္တုသည် ရွှေဖြစ်သည်ဆိုလျှင် မသန့်သေးသော ရွှေသတ္တုကို ဆိုဒီယမ်ဆိုင်ယနိုက်အပေါ်ရည်တွင် ပျော်ဝင်စေပြီးလျှင် ထိုအထဲသို့ သွပ်ကို ထည့်ပေးလိုက်လေသည်။ သို့ဖြင့် ရွှေအားလုံးသည် သွပ်တွင်လာ၍ စုရုံးနေတော့၏။ ဤနည်းကို စစ်ယူသောနည်းဟု ခေါ်သည်။

စစ်ယူသောနည်းဖြင့် သတ္တုကိုအဖျော်ပစ္စည်းတခုခုနှင့် အရည်ပျော်စေပြီးသည်နောက် တခါတရံ ထိုအဖျော်ရည်ကို လျှပ်စစ်ဖြင့် ဓာတ်ခွဲနည်းဖြင့် သတ္တုကို ထုတ်ယူတတ်သည်။ ပုံပမာ ကြေးနီသတ္တုရိုင်းကို ဆာလဖျူရစ်အက်ဆစ်နှင့် ပျော်ဝင်စေပြီးလျှင် ဓာတ်ခွဲသည့်အိုးတွင် ထည့်သည်။ ထိုအိုးတွင် လျှပ်စစ် ဓာတ်သည် ခဲနှင့် ပြုလုပ် ထားသော ဓာတ်ဖိုတိုင်မှ ကြေးနီ ဓာတ်မတိုင်သို့ ပျော်ဝင်ရည်ကို ဖြတ်ကာ စီးသွားသည်။ ပျော်ဝင်ရည်တွင်ရှိသော ကြေးနီ အက်တမ်များတွင် အဖိုဓာတ်ရှိ၏။ ဓမ္မတာအတိုင်း အဖိုဓာတ်သည် အမဓာတ်ကို ရှာရာတွင် ကြေးနီဓာတ်မတိုင်သို့ရောက်သွားလေသည်။ အလျူမီနမ်နှင့် မဂ္ဂနီဇီယမ် တို့ကိုလည်း လျှပ်စစ်ဖြင့် ဓာတ်ခွဲနည်းဖြင့် ထုတ်ယူသည်။ ထုတ်ယူနည်းမှာ ပျော်ဝင်ရည်ကို ပြင်းစွာ အပူတိုက်ပေး ထားရသည်။ (လျှပ်စစ်ဖြင့် ဓာတ်ခွဲခြင်း — လည်းရှု။)

လျှပ်စစ်ဖြင့် ဓာတ်ခွဲယူနည်းသည် ပျော် ဝင် ရည် မှ သတ္တုကို ထုတ်ယူရာ၌ အဖိုးတန်သောနည်း ဖြစ်သည်သာမက သတ္တုများ သန့်သည်ထက် သန့်အောင် ပြုလုပ်ရာ၌လည်း အသုံးဝင်သည်။ ကြေးနီသည် လျှပ်စစ်ဖြင့် ဓာတ်ခွဲနည်းဖြင့် သန့်စင်အောင် ပြုလုပ်၍ရသော သတ္တု တခုဖြစ်သည်။ အညစ်အကြေး မစင်သေးသော သတ္တုကို ဓာတ်ဖိုတိုင်အဖြစ်နှင့် ထားသည်။ လျှပ်စစ်ဓာတ် ဖြတ်စီးသွားသောအခါ ကြေးနီအစစ် အက်တမ်များသည် ဓာတ်ဖိုဖြစ်လာပြီးလျှင် ဓာတ်မဟိုင်ရှိရာသို့ သွားရောက်စုကြတော့၏။ ဤနည်းဖြင့် ကြေးနီအစစ်သည် ဓာတ်မတိုင်တွင် စုခဲရှိနေတော့၏။

ပြဒါး သတ္တုစပ် ဖြစ်အောင် ပြုလုပ် ယူနည်းသည် တခါတရံ သတ္တုကျောက်ရိုင်းများမှ ရွှေနှင့်ငွေကို ထုတ်ယူရာ၌ အသုံးပြုသော နည်းဖြစ်သည်။ အလွန်သေးငယ်သော အမှုန်များဖြစ်အောင် ကြိတ်ထားသည့် သတ္တုကျောက်ရိုင်းအမှုန့်များကို အရည်ဖျော်၍ ပြဒါး ထည့်ထားသော ခွက်များထဲသို့ လောင်းထည့်လိုက်၏။ ပြဒါးသည် သတ္တုရိုင်းထဲရှိ ရွှေ၊ သို့မဟုတ် ငွေသတ္တုကို ထုတ်ဆွဲယူပြီးလျှင် ယင်းတို့နှင့် ပေါင်းကာ ပြဒါးသတ္တုစပ်အဖြစ်သို့ ပြောင်းသွားသည်။ ထိုနောက် ပြဒါးသတ္တုစပ်ကို အပူတိုက် ပေးလိုက်သော အခါ ပြဒါးသည် ဓာတ်ငွေ့အဖြစ်နှင့် လွင့်သွား၍ ရွှေနှင့်ငွေအစစ်သာလျှင် ကျန်ရစ်လေသည်။

လုပ်ကိုင်ရေး သတ္တုဗေဒဆိုသည်မှာ လူတို့အသုံးပြုရန်အတွက် သတ္တုကို ပြုပြင် စီမံလုပ်ကိုင်သော ပညာရပ်ခွဲကို ခေါ်သည်။ သတ္တုကို အသုံးအဆောင် ဖြစ်အောင် ပြုလုပ်ပေးသော မည်သည့် လုပ်ငန်းပင်ဖြစ်စေ ဤပညာရပ်ခွဲတွင် အကျုံးဝင်သည်။ သံမဏိကို နစ်ကယ်နှင့် ရောစပ်ပေးလိုက်လျှင် အလွန်ခိုင်မာတောင့်တင်း၍ ခံနိုင်ရည်ရှိသော သံမဏိတမျိုးဖြစ်လာသည်။ ထိုနည်းတူစွာ အခြားသတ္တုများကိုလည်း ခိုင်မာတောင့်တင်းသော သတ္တုစပ်များဖြစ်လာအောင် သက်ဆိုင်ရာသတ္တုများနှင့်ရောစပ်ပေးရသည်။ ပို၍ခိုင်မာတောင့်တင်းလာအောင် သတ္တုများကိုတခါတရံ အပူတိုက်ပြီးပြုပြင်ပေးရသည်လည်းရှိ၏။ ဤကဲ့သို့သောလုပ်ငန်းများ အားလုံးသည် လုပ်ကိုင်ရေး သတ္တုဗေဒတွင် အကျုံးဝင်လေသည်။ ပန်းဘဲဆရာတဦးသည် မြင်းခွာတခုကို မီးရဲအောင်ဖုတ်ပြီး ထုရိုက်နေသောအခါ ထိုသူသည် သတ္တုဗေဒကို လုပ်ကိုင်နေသည် မည်ပေသည်။

သတ္တုဗေဒကို ယခုခေတ်မှသာ ပေါ်ထွန်းလာသည့် သိပ္ပံပညာရပ် ဖြစ်သည် ဟု ထင်မှတ်ကြသော်လည်း အမှန်မှာ ယင်းသည် ရှေးအကျဆုံး ပညာရပ်တခု ဖြစ်သည်။ သမိုင်းမတင်မီ အချိန်ကပင် လူတို့သည် လုပ်ကိုင်ရေး ဆိုင်ရာ သတ္တုဗေဒကို သိရှိခဲ့ကြသည်။ ရှေးခေတ် တရုပ်လူမျိုးနှင့် အီဂျစ်လူမျိုးတို့သည် ရွှေအစစ်ကို အမှုန့်နှင့်အခဲ အဖြစ်ဖြင့် တွေ့ရှိခဲ့ကြ၍ ထိုရွှေကို လက်ဝတ်လက်စား အမျိုးမျိုးဖြစ်အောင် ပုံသွင်းယူခဲ့ကြသည်။ အမေရိကန် အင်ဒီးယန်းလူမျိုးတို့သည်လည်း ဆူပီးရီးယားအိုင် ပတ်လည်၌ ကြေးနီအစစ်ကို တွေ့ရှိခဲ့ကြသည်။ ဤသတ္တုဖြင့် သူတို့သည် အလွန်လှပပြီး အသုံးဝင်သော လှံများကို ပြုလုပ်သုံးစွဲခဲ့ကြသည်။

သမိုင်းမတင်မီအခါကပင် ရှေးလူတို့သည် သတ္တုကျောက်ရိုင်းများကို အရည်ကျို၍ သတ္တုထုတ်ယူသည့် သာမန်နည်းများကို တွေ့ရှိခဲ့ကြသည်။ ခဲသည် သတ္တုကျောက်ရိုင်းကို

အရည်ကျို၍ ရရှိသော ပဌမဆုံး သတ္တု ဖြစ်မှန်တူသည်။ အဘယ်ကြောင့်ဆိုသော် ခဲသတ္တုရိုင်းကို အလွယ်တကူ အရည်ကျိုနိုင်သောကြောင့် ဖြစ်သည်။ သံကို အရည်ကျိုရန် ကိစ္စမှာ အခက်ဆုံး ဖြစ်သော်လည်း လွန်ခဲ့သည့် နှစ်ပေါင်း ၄,၀၀၀ ခန့်ကပင် အီဂျစ်လူမျိုးတို့သည် သံသတ္တုရိုင်းများမှ သံထုတ်ယူနည်းကို သိရှိခဲ့ကြသည်။ အဆီးရီးယန်း လူမျိုးတို့ ကောင်းစားသောခေတ်သို့ ရောက်သောအခါ သတ္တုရိုင်းမှ သံထုတ်ယူသောအလုပ်သည် အထူးတိုးတက်ခဲ့ပြီ ဖြစ်လေသည်။ ရှေးအဆီးရီးယန်းများသည် သံထုတ်မှုနည်းကိုသာ သိရှိခဲ့ကြရုံမျှ မက၊ သံမဏိ လုပ်ကိုင်နည်းကိုပါ သိရှိခဲ့ကြလေသည်။

အလယ်ခေတ်က အင်္ဂလိပ်သမားတို့သည် အခြားပစ္စည်းများကို ဖိုထိုး၍ ရွှေဖြစ်အောင် လုပ်ကိုင်ခဲ့ကြသော်လည်း ရွှေကား မဖြစ်၊ သို့သော် သတ္တုဗေဒ၌ များစွာ တိုးတက်မှု ရရှိခဲ့ကြသည်။ သူတို့သည် သတ္တုများ၏ အပြုအမူနှင့်တကွ သုံးစွဲနည်းကိုပါ သိရှိလာကြသည်။ ခေတ်သစ် သတ္တုဗေဒ ပညာရပ်ကို အုတ်မြစ်ချပေးခဲ့သူများမှာ အလယ်ခေတ်မှ အင်္ဂလိပ်ဆရာများပင် ဖြစ်သည်ဟု ယူဆနိုင်ပေသည်။

**သတ္တုမီးတိုက် ဆက်ခြင်း။** ။သတ္တုမီးတိုက် ဆက်ခြင်း (ဝဲလဒင်း) ဆိုသည်မှာ သတ္တုများကို အရည်ပျော်လာသည်အထိ အပူတိုက်ပေးပြီးနောက် ဖိအားဖြင့် ဆက်ခြင်းကို ဆိုသည်။ သို့ဖြင့် မျိုးတူသတ္တုများကို တသားတည်း ဖြစ်သွားအောင် ဆက်ပေးနိုင်သည်။

ရှေးအခါက သတ္တုမီးတိုက် ဆက်ခြင်းကို လူတို့သည် အကျိုးရှိရှိနှင့် အသုံးပြုရမှန်း မသိခဲ့ကြပေ။ ပဌမကမ္ဘာစစ် ဖြစ်လာချိန်တွင် သတ္တုထည်များကို မြန်နိုင်သမျှမြန်အောင် ပြုလုပ်ရန် လိုအပ်လာသည့်အခါကျမှ ဤနည်းသည် အရေးတကြီး ခေတ်စားခဲ့သည်။ သို့သော် ထိုအချိန်က ပစ္စည်းအသေးအဖွဲ ပြုလုပ်သည့် လုပ်ငန်းများတွင်သာ အသုံးပြုခဲ့ကြသေး၏။ ၁၉၄၀ ပြည့်နှစ် ကျော်လွန်လာမှ ဤနည်းကို မီးရထား၊ သင်္ဘော၊ အဆောက်အအုံဆောက်လုပ်ရေး လုပ်ငန်းမှစ၍ မရေတွက်နိုင်အောင်များပြားသည့် လုပ်ငန်းများတွင် ထည့်သွင်းအသုံးပြုလာကြသည်။ ဤနည်းသည် ယခင်က အသုံးပြုခဲ့ကြသော ရဗစ်ရိုက်နည်း၊ ဇာဝီစုတ်နည်း တို့ထက် သာလွန်ကောင်းမွန်သည်ကိုလည်း တွေ့လာကြသည်။ သတ္တုမီးတိုက်ဆက်ခြင်းကို (၁) ပန်းဘဲဖို ဆက်နည်း၊ (၂) မီးစွယ် ဆက်နည်း၊ (၃) ဓာတ်ငွေ့ ဆက်နည်း၊ (၄) လျှပ်စစ်ခုခံအား ဆက်နည်းနှင့် (၅) သာမိုက် ဆက်နည်း ဟူ၍ အဓိကအားဖြင့် ငါးမျိုး ခွဲခြားနိုင်သည်။

**ပန်းဘဲဖိုဆက်နည်း။** ။ရှေး အကျဆုံး ဆက်နည်းမှာ ပန်းဘဲဖို ဆက်နည်းပင် ဖြစ်၏။ ခရစ် ၁၇၉၀ ပြည့်နှစ်ခန့် တိုင်အောင် လူတို့သည် ဤနည်းတခုတည်းဖြင့်သာ သတ္တုများကို ဆက်ခဲ့ကြ၍ ယခုအခါတွင်လည်း ဤနည်းကို အထိုက်အလျောက် သုံးစွဲနေကြဆဲဖြစ်သည်။ ဆက်ပေးပုံမှာ ဆက်လိုသည့် သတ္တုမျက်နှာပြင်များကို သင့်တော်အောင် ပြုလုပ်ပြင်ဆင်ပြီးနောက် ထိုအစိတ်အပိုင်းများကို ဖိုထဲ၌ မီးပြင်းတိုက်၍ မီးဖုတ်ပေးရသည်။ ထို့နောက် လက်ချား ကဲ့သို့သော အဖျော်ကူ ပစ္စည်းတခုခုကို အနည်းငယ်ဖြူးပေးပြီးသော် တူဖြင့်ထုရိုက်၍ဖြစ်စေ၊ သို့မဟုတ် အခြားနည်းဖြင့် လိုမ့်ပေး ဖိညှစ်ပေး၍ဖြစ်စေ ဆက်ယူရလေသည်။

**မီးစွယ် ဆက်နည်း။** ။ဤနည်းတွင် လျှပ်စစ်ဓာတ်နှင့် ဖန်တီးပေးရသော လျှပ်စစ်မီးစွယ်ဖြင့် သတ္တုကို အရည်ပျော်စေ၍ဆက်ပေးသည်။ ဆက်ပေးရမည့်နေရာတွင် သတ္တုသား သွင်းပေးရန်အတွက် သင့်တော်သော သတ္တုများဖြင့် ပြုလုပ်ထားသည့် အသားသွင်း သတ္တုချောင်းကို အသုံးပြုလေ့ရှိကြ၏။ ရှေးဦးစွာ ဆက်လိုသည့် နေရာကိုနေသားတကျ စီစဉ်ပြီးသော် ထိုအဆက်နှင့်သင့်တော်သော အသားသွင်း သတ္တုချောင်းတခု၏ စပ်ကြားတွင် လျှပ်စစ်မီးစွယ်ကို ကူးစေသည်။ သတ္တုချောင်းကို သင့်ဘော်သော အဖျော်ကူ ပစ္စည်းတခုခုဖြင့် ဖုံးအုပ်မွမ်းမံထားလေ့ရှိသည်။ လျှပ်စစ်မီးစွယ်ကြောင့် ဖြစ်ပေါ်လာသော အပူချိန်မှာ ဖာရင်ဟိုက် ဒီဂရီ ၇,၅၀၀ ပင် ကျော်တတ်သေး၏။ ထိုအပူရှိန်ကြောင့် ဆက်ပေးရမည့် နေရာရှိ သတ္တုနှင့်တကွ သတ္တုချောင်းပါ အရည်ပျော်ပြီးသော် သတ္တုချောင်းမှ သတ္တုရည်သည် အဆက်နေရာသို့ဝင်သွား၍ ဆက်ပေးရမည့်သတ္တုအချင်းချင်းကို တသားတည်း ဖြစ်အောင် ဆက်ပေးလေသည်။

အက်တမ်မစ်ဟိုက်ဒြိုဂျင် မီးစွယ်ဆက်နည်းဟု ခေါ်သောနည်းတွင် တန်စတင် (အဖြိုက်နက်)ဖြင့် ပြုလုပ်ထားသည့် ဓာတ်ခေါင်း နှစ်ခုကြား၌ မီးစွယ်ကူးစေ၍ ထိုမီးစွယ်ကြားထဲသို့ ဟိုက်ဒြိုဂျင်ဓာတ်ငွေ့လွှတ်ပေးသည်။ ထိုအခါ ဟိုက်ဒြိုဂျင် မော်လီကျူးတို့သည် ဟိုက်ဒြိုဂျင် အက်တမ်အဖြစ်သို့ ကွဲထွက်သွားပြီးနောက် မီးစွယ်ကို ကျော်လွန်ချိန်တွင် အက်တမ်အဖြစ် ကွဲထွက်စဉ်က စုတ်ယူထားသည့် အပူဓာတ်ကို ပြန်လည်စွန့်ထုတ်ပေးရင်း မော်လီကျူးအဖြစ် ပြန်လည်ပူးပေါင်း သွားကြသည်။ ဟိုက်ဒြိုဂျင်သည် မီးလောင်၍ ထိုမီးတွင် သတ္တုသားသွင်းပေးမည့် နန်းကြိုးကိုအရည်ပျော်စေရသည်။ ဤသတ္တုရည်က တဖန် သတ္တုကို ဆက်ပေးသည်။ ဤနည်းဖြင့် ဆက်ယူသည့် အဆက်မျိုးသည် မူလအထည်နှင့် ခွဲ၍ မရလောက်အောင်ပင် ကောင်းမွန်သည်ကို တွေ့ရလေသည်။

**ဓာတ်ငွေ့ဆက်နည်း။** ။ဤနည်းတွင် အဆက်တီလင်း ဓာတ်ငွေ့ကို အောက်ဆီဂျင်ဓာတ်ငွေ့ဖြင့် ပေါင်းစပ်မီးရှို့ပေး

၍ သတ္တုများကိုအရည်ပျော်အောင်ပြုလုပ်ပြီးလျှင် ဆက်ယူရသည်။ ထိုအတွက် အောက်ဆီ အဆက်တီလင်း သတ္တုဆက် မီးခွက်ခေါ် မီးခွက်တမျိုးကို အသုံးပြုကြရ၏။ ဖြစ်ပေါ်သည့် အပူချိန်မှာ ဖာရင်ဟိုက် အပူချိန် ဒီဂရီ ၅၅,၀၀၀ ခန့် ပြင်းထန်သည်ဟုဆိုသည်။ တခါတရံတွင်လည်း အောက်ဆီဂျင်နှင့် အဆက်တီလင်း အစား ဟိုက်ဒြိုဂျင် တခုတည်းကိုသော်၎င်း၊ ဟိုက်ဒြိုဂျင်နှင့် အောက်ဆီဂျင်ကို တွဲဖက်၍သော်၎င်း အသုံးပြုကြသည်။ ဤနည်းကို များသောအားဖြင့် မီးရထားသံလမ်းများနှင့် ပိုက်လုံးများ ဆက်ရာ၌ သုံးလေ့ ရှိကြသည်။

**လျှပ်စစ်ခုခံအားဆက်နည်း။** ။ဤနည်းကို လွန်ခဲ့သော နှစ်ပေါင်း ၅၀ ခန့်က အယ်လီ ဟျူး သွန်မဆင် ဆိုသူက စတင် တီထွင်ခဲ့သည်။ ဤနည်းတွင် ဆက်လိုသည့် အစိတ်အပိုင်းများကို လိုအပ်သလို ပြုပြင်၍ အားနှင့် ဖိထားပြီးနောက် အားကောင်းသော လျှပ်စစ်ဓာတ်စီးကို စီးဖြတ်စေလည်။ ပစ္စည်းတခုတွင် လျှပ်စစ်ဓာတ် စီးဖြတ်သောအခါ လျှပ်စစ်ဓာတ် မစီးနိုင်အောင် ခုခံသည့်သဘောသည် ပစ္စည်းတိုင်းတွင် ရှိသည်။ ခုခံမှုကြောင့် အပူဓာတ်ကို ဖြစ်ပေါ်စေ၍ ခုခံမှုအားကြီးလျှင် အပူရှိန်သည် ပိုမိုကြီးမားလာသည်။ ဤနေရာ၌ ဆက်ပေးရမည့် နေရာတွင်ရှိသော ခုခံအားသည် ကျန်နေရာများမှာထက် ပို၍ ကြီးသည်။ ထိုကြောင့် လျှပ်စစ်ဓာတ် စီးဖြတ်ချိန်၌ ဖြစ်ပေါ်လာသော အပူရှိန်သည် ဆက်ပေးရမည့် နေရာတွင် ပို၍ ကြီးမားပြင်းထန်သည်။ နောက်ဆုံးတွင် ထိုနေရာ၌ သတ္တုအရည် ပျော်လာသည်။ ထိုအခါ ယခင်ကထက် တိုးတက် ဖိနှိပ်ပေးရ၍ ထိုသို့ဖိနှိပ်ပေးမှုကြောင့် သတ္တုချင်း ဆက်သွားလေသည်။

**သာမိုက်ဆက်နည်း။** ။သာမိုက် ဟူသော ဝေါဟာရမှာ အလျူမီနီယမ်နှင့် အိုင်းယန်းအောက်ဆိုက်ကို အမှုန့်ပြု၍ ရောထားသည့် ပစ္စည်းရောကို ခေါ်သည့် ကုန်သည်သုံးအမည် ဖြစ်၏။ အလျူမီနီယမ်တွင် အောက်ဆီဂျင်ကို ဆွဲငင်တတ်သော ဓာတ်ဆွဲသတ္တိ ရှိသည်။ ထိုကြောင့် သာမိုက်ကို မီးစွဲလောင်အောင် မီးရှို့ပေးသောအခါ အလျူမီနီယမ်နှင့် အောက်ဆီဂျင်တို့ ပေါင်းစပ်သွားပြီးနောက် လွတ်ကျန်နေသော သံသည် ဖာရင်ဟိုက် အပူချိန် ဒီဂရီ ၅,၀၀၀ ခန့်ဖြင့် အရည်ပျော်နေသော သံမဏိ ဖြစ်သွားသည်။ သံကို သံချင်း ဆက်ရာတွင် အဆိုပါ သံမဏိရည်က ဆက်ပေးခြင်း ဖြစ်၏။ ဤနည်းတွင် ရှေးဦးစွာ ဆက်လိုသည့်နေရာ၌ ဆက်ပေးမည့်ပုံအတိုင်း ဖယောင်းပုံလုပ်ပေးပြီးနောက် ဖယောင်းပေါ်၌ သဲဖြင့် အုံ၍ သဲပုံစံခွက် ရအောင် ပြုလုပ်ပေးရသည်။ ထိုနောက် ပုံစံခွက်ပေါ်၌ သာမိုက် ထည့်ထားသော လုံကိုတင်၍ စီးကျလာမည့် သံမဏိရည်သည် ပုံစံခွက်ထဲသို့ ဝင်အောင် အံကိုက် စီမံထားရသည်။ အားလုံး အသင့်ဖြစ်သောအခါ ပုံစံခွက်အတွင်းရှိ ဖယောင်းသည် ပျော်သွားရုံသာမက ဆက်ရမည့်အစိတ်အပိုင်းများပါ နီရဲလာသည်အထိ အပူတိုက်ပေးရသည်။ ထိုနောက် လုံထဲ၌ ထည့်ထားသော သာမိုက်ကို မီးရှို့ လိုက်သောအခါ ၂၅ စက္ကန့်မှ ၃၅ စက္ကန့်အချိန်အတွင်းမှာပင် သံမဏိရည် ပေါ်လာသည်။ ထိုအခါ လုံအောက်ဖက်ရှိ ပြွန်ခေါင်းကို ဖွင့်ပေးရ၏။ လုံထဲမှ စီးကျလာသော သံမဏိရည်သည် ပုံစံခွက်ထဲသို့ ဝင်ရောက်သွား၍ ဆက်လိုသည့် သတ္တုအချင်းချင်းကိုတသားတည်းကျအောင် ဆက်ပေးသွားလေသည်။ ဤနည်းကို များသောအားဖြင့် ဓာတ်ရထား သံလမ်းများ ဆက်ရာ၌ အသုံးပြုလေ့ ရှိကြလေသည်။

**သုတ္တန်။** ။သုတ္တန် ဟူသော ဝေါဟာရသည် သုတ္တန္တ ဟူသော ပါဠိမှ ဆင်းသက်လာသော ပါဠိသက် ဝေါဟာရ ဖြစ်ပေသည်။ ယင်းဝေါဟာရကို သုတ္တ+အန္တ ဟုပုဒ်ခွဲရသည်။ ဤ၌ အန္တ သဒ္ဒါမှာအနက်အဓိပ္ပါယ်လုံးဝမရှိ၊ရွတ်ဆိုကောင်းရုံ စကားလုံးရုံသာ ဆက်တွဲထားသော ပုဒ် ဖြစ်၍ သုတ္တသဒ္ဒါ၏ အနက်အဓိပ္ပါယ်ကိုသာ နည်းအမျိုးမျိုးဖြင့် ဥဏ်ပထျာဖြန့်၍ အဋ္ဌကထာ၌ ဖွင့်ဆိုရေးသားခဲ့လေသည်။ဖွင့်ဆိုပုံမှာ—

၁။ မိမိအကျိုး၊ သူတပါးအကျိုး၊ မျက်မှောက်အကျိုး၊ တမလွန်အကျိုး၊ လောကီအကျိုး၊ လောကုတ္တရာအကျိုး စသည်တို့ကို ပြတတ်သောကြောင့် သုတ္တ မည်လေသည်။ (ဤနည်းအလို သုစ ဓာတ်၊ တ ပစ္စည်းဖြင့် ပြီးသော ပုဒ် ဖြစ်လေသည်။)

၂။ ဝေနေယျတို့၏ အလိုအဇ္ဈာသယနှင့် လိုက်လျောညီညွတ်သောအနက် (အကြောင်းခြင်းရာ)တို့ကို ကောင်းမွန်တိကျစွာ ဟောကြားထားရာ ပိဋကတ်ဖြစ်သောကြောင့် သုတ္တမည်၏။ (ဤနည်းအလို သု ရှေ့ရှိသော ဝစ ဓာတ်၊ တ ပစ္စည်းဖြင့် ရုပ်ပြီးသည်။)

၃။ ကောက်ပင်သည် ဆန်စပါး အသီးအနှံကို ဖြစ်ပေါ်တိုးပွားစေသကဲ့သို့ သတ္တဝါတို့၏ အကျိုးစီးပွားကို ဖြစ်ထွန်းစေတတ်သောကြောင့် သုတ္တ မည်၏။ (ဤနည်းအလို သု ဓာတ်၊ တ ပစ္စည်းဖြင့် ရုပ်ပြီးသည်။)

၄။ သားသည်အမေ ဖြစ်သော နွားမသည် မိမိ၏ သားသမီးဖြစ်သည့် နွားငယ်ကလေးများအား နို့ရည်ကို ယိုချပေး၍ တိုက်ကျွေးသကဲ့သို့ ဝေနေယျ သတ္တဝါတို့အား အကျိုး ကျေးဇူး အထူးထူးတို့ကို ယိုချပေးတတ်သောကြောင့် သုတ္တ မည်၏။ (ဤနည်းအလို သူဒ ဓာတ်၊ တ ပစ္စည်းဖြင့် ရုပ်ပြီးဟန်ကို ကြံသည်။)

၅။ အကျိုးစီးပွားတို့ကို ကောင်းစွာ စောင့်ရှောက်ထားတတ်သောကြောင့် သုတ္တ မည်၏။ (ဤနည်းအလို သု ရှေ့ရှိသော တာဓာတ်၊ တ ပစ္စည်းဖြင့် ရုပ်ပြီးဟန်ကို ကြံသည်။)

၆။ လက်သမားဆရာသည် တံမျဉ်းကြိုးချ (မျဉ်းသား) ပြီးမှ ယင်းမျဉ်းကြောင်းအတိုင်း မတိမ်းမစောင်းစေပဲ သစ်ရွှေခြင်း၊ ဖြတ်တောက်ခြင်း စသည် ပြုရသကဲ့သို့ ထိုအတူ သုတ္တန်ဒေသနာ မျဉ်းကြောင်းနှင့် မတိမ်း မစောင်းစေမူ၍ ကျင့်ကြံကြရသည် ဖြစ်ရကား လက်သမားသုံး တံမျဉ်းကြိုးနှင့် အလားတူသောကြောင့်၎င်း၊ တပွင့်စီ သီးခြားနေသော ပန်းပွင့်များသည် ပန်းသီကြိုးဖြင့် သီကုံး ဖွဲ့နှောင်ထားအပ်သော် ဖရိုဖရဲ ပြန့်ကြဲခြင်း မရှိသကဲ့သို့ ထိုအတူ ဘုရားရှင် ဟောကြားအပ်ခဲ့သည့် အနက် အဓိပ္ပာယ်(အကြောင်းခြင်းရာ)တို့ ဖရိုဖရဲ မရှိရလေအောင် သုတ္တန် ပိဋကတ်ဖြင့် စုစည်း သီကုံးထားအပ်သည်ဖြစ်၍ ပန်းသီချည်၊ ပန်းသီကြိုးနှင့် အလားတူသောကြောင့်၎င်း သုတ္တ မည်၏။ (ဤနည်းအလို သုတ္တ ပုဒ်၊ အ ပစ္စည်းဖြင့် ပြီးသော ဥပမာတဒ္ဓိတ် ဖြစ်သည်။)

ယင်းသုတ္တန်ပိဋကတ်ကို ဒေသနာဘေဒ စသည်ဖြင့် ဝေဖန်ရသော် အာဏာ ဒေသနာ၊ ဝေါဟာရ ဒေသနာ၊ ပရမတ္ထ ဒေသနာ ဟူ၍ ဒေသနာအပြား သုံးပါးရှိရာတွင် ဥပမာ ဥပမေယျ ဂါထာ စဏ္ဏိယ ပုံဝတ္ထု သက်သေ သာဓက စသည်တို့ဖြင့် သင့်သလို စီစဉ်၍ ကြားနာသူတို့ နားလည်လွယ်မည့် စကားလုံးတွေကို သုံးစွဲသောအားဖြင့် အဟောများသောကြောင့် ဝေါဟာရ ဒေသနာမျိုး ဖြစ်လာသည်။ တရံတခါ ပရမတ္ထတို့ကို အကြောင်းအားလျော်စွာ ညှပ်၍ ညှပ်၍ ဟောကြားသည့် နေရာများ ရှိလင့်ကစား၊ ယင်းတို့ကား နည်းပါးလှသဖြင့် ပရမတ္ထဒေသနာ ဟု ခေါ်ဆိုခြင်း မပြုရချေ။

ယထာ ပရာဓ သာသနာ၊ ယထာ နုလောမ သာသနာ၊ ယထာ ဓမ္မ သာသနာ ဟူ၍ သာသနာအပြား သုံးပါးရှိရာတွင် ဤမည်သော ရောဂါဖြစ်ပေါ်လာလျှင် ဤမည်သော ဆေးဖြင့် မည်သို့ မည်ပုံ ကုစားရမည်ဟု အနာနှင့်ဆေး ကိုက်အောင် ကုထုံးကုနည်းနှင့်တကွ ခြေခြေမြစ်မြစ် ဖော်ပြရေးထားသော ဆေးကျမ်းကြီးကဲ့သို့ သတ္တဝါတို့၏ အလိုစရိုက် ဝါသနာ စသည့် အခြေအနေအလိုက် အခြေအနေနှင့် ဟပ်မိအောင် အံကျ ဟောကြားထားအပ်သောကြောင့် ယထာနုလောမ သာသနာသို့ ဝင်လေသည်။

သံဝရ သံဝရ ကထာ၊ ဒိဋ္ဌိဝိနိဝေဌန ကထာ၊ နာမရူပ ပရိစ္ဆေဒ ကထာ ဟူ၍ ကထာအပြား သုံးပါးရှိရာ ၆၂ ပါးသော ဒိဋ္ဌိတို့ ပပျောက်အောင် ဖြေရှင်းနည်းတို့ကို ဟောကြားရာဖြစ်သောကြောင့် ဒိဋ္ဌိဝိနိဝေဌနကထာ မည်၏။

အဓိသီလ သိက္ခာ၊ အဓိစိတ္တသိက္ခာ၊ အဓိပညာ သိက္ခာ ဟူ၍ သိက္ခာအပြား သုံးပါးရှိရာ သမာဓိ အရာဖြစ်သောကြောင့် အဓိစိတ္တ သိက္ခာမည်၏။

ဝီတိက္ကမ ပဟာန်၊ ပရိယုဋ္ဌာန ပဟာန်၊ အနုသယပဟာန် ဟူ၍ ပဟာန်အပြား သုံးပါးရှိရာ သမာဓိသည် ပရိယုဋ္ဌာန ကိလေသာ၏ ဆန့်ကျင်ဖက်ဖြစ်သောကြောင့် ပရိယုဋ္ဌာန ပဟာန်မည်၏။

စကားအစဉ်၏ နက်နဲခြင်း၊ အနက်အဓိပ္ပာယ်၏ နက်နဲခြင်း၊ ဖော်ထုတ် ဟောပြမှု၏ နက်နဲခြင်း၊ မှန်ကန်စွာ သိရှိနားလည်မှု၏ နက်နဲခြင်း တည်းဟူသော နက်နဲခြင်း လေးမျိုးနှင့်လည်း ပြည့်စုံပေ၏။

ထိုသုတ္တန်ပိဋကတ်ကို နိကာယ် ဖွဲ့ရသော် (၁)ဒီဃနိကာယ်၊ (၂)မဇ္ဈိမနိကာယ်၊ (၃)သံယုတ္တနိကာယ်၊ (၄) အင်္ဂုတ္တရနိကာယ်၊ (၅)ခုဒ္ဒကနိကာယ် ဟူသော နိကာယ် ငါးရပ်လုံး၌ ပါဝင်လေသည်။ (နိကာယ် ငါးပါး — ရှု။)

ဤသို့ ဖော်ပြခဲ့သည့်အတိုင်း သုတ္တန်ဒေသနာတော်သည် မျက်မှောက်အကျိုး၊ တမလွန်အကျိုး၊ လောကီအကျိုး၊ လောကုတ္တရာအကျိုး စီးပွားတို့ကို တင်းပြည့်ကျပ်ပြည့် ပေးစွမ်းနိုင်သော သတ္တိထူး ဂုဏ်ထူး ဝိသေသနှင့် ပြည့်စုံခြင်းကြောင့်၎င်း၊ ကြားနာသူတိုင်း နားလည်နိုင်အောင် ပေါ့လွင် ထင်ရှားသော အသုံးအနှုန်းများဖြင့် အဆစ်အပိုင်းကျကျ ဟောကြား ညွှန်ပြထားသော ဝေါဟာရ ဒေသနာတော် ဖြစ်ခြင်းကြောင့်၎င်း၊ သတ္တဝါတို့၏ အလိုအကြိုက် စရိုက်နှင့် သင့်လျော်အောင် ဟောကြားအပ်သော ယထာနုလောမ သာသနာတော် ဖြစ်ခြင်းကြောင့်၎င်း၊ ချတ်ချော် မှားယွင်းနေသော မိစ္ဆာအယူတို့ ကင်းစင် ပျောက်လွင့်စေနိုင်သော အစွမ်းတန်ခိုးရှိသော ဒိဋ္ဌိဝိနိဝေဌနကထာ ဖြစ်ခြင်းကြောင့်၎င်း၊ တည်ကြည်မှု သမာဓိတရားကို မွေးမြူတိုးပွားစေနိုင်သော အဓိစိတ္တသိက္ခာ ဖြစ်ခြင်းကြောင့်၎င်း၊ ထကြွသောင်းကျန်းလာသော ကိလေသာတရား အညစ်တို့ကို ပယ်ရှားစားမြစ်နိုင်သော ပရိယုဋ္ဌာနပဟာန် ဖြစ်ခြင်းကြောင့်၎င်း၊ ယခု မျက်မှောက် ကြီးပွားရေး၊ နောင်တမလွန်ကြီးပွားရေး၊ လောကီ အကျိုးစီးပွား၊ လောကုတ္တရာ အကျိုးစီးပွားတို့ကို လိုလားတောင့်တသော အမျိုးကောင်းသားတို့သည် ယင်းသုတ္တန်ဒေသနာကို သေချာစေ့စပ် အထပ်ထပ် အဖန်ဖန် အပြန်အလှန် သုံးသပ်ကြလျက် အကျင့်မြတ် အကျင့်မှန်တို့ကို ကျင့်ကြံအားထုတ်ရန် သင့်မြတ်လှပေသတည်း။

ဆရာဉာဏ်

**သုဒ္ဓေါဒန မင်းကြီး။** ။သုဒ္ဓေါဒန မင်းကြီးသည် ဂေါတမ မြတ်စွာဘုရား၏ ဘခမည်းတော်ဖြစ်၏။ အဝန်းယူဇနာ ကိုးရာရှိသော မဇ္ဈိမဒေသတွင် သက္ကတိုင်း ကပိလဝတ်ပြည်ကြီးကို စိုးအုပ်ပိုင်သသော မင်းကြီးတပါး ဖြစ်ပြီးလျှင် လူဝတ်ကြောင်ဘဝနှင့်ပင် ရဟန္တာဖြစ်၍ ပရိနိဗ္ဗာန် စံဝင်ခဲ့သော ပုဂ္ဂိုလ်ထူးလည်း ဖြစ်ပေသည်။

သုဒ္ဓေါဒနမင်းကြီး၏ အမျိုးအနွယ် အစဉ်အဆက်မှာ

ဩက္ကာကရာဇ်မင်းမှစ၍ ဇယသေနမင်းအထိ ရှစ်သောင်း နှစ်ထောင်သော မင်းတို့သည် ကပိလဝတ်ပြည်ကြီး၌ မင်းပြုကြကုန်၏။ ထိုမင်းတို့တွင် အစဖြစ်သော ဩက္ကာကရာဇ်မင်းကြီး၏ 'သကျာ၀တ ဘော ကုမာရာ=အချင်းတို့ သားတော်တို့သည် စွမ်းနိုင်ကုန်စွတကား'ဟူသော ဥဒါန်းကျူးရင့် မိန့်ခွန်းဆင့်သည်ကို အစွဲပြု၍ သာကီဝင်မျိုးဟု ခေါ်ကြောင်းကို သုတ်သီလက္ခန် ပါဠိတော်၌ ဟောပြထားလေသည်။

ရှစ်သောင်း နှစ်ထောင်သော သာကီဝင်မျိုးတို့၏နောက်ဆုံးမင်းဖြစ်သော ဇယသေနမင်းမှ သားတော် သီဟဟနု၊ သမီးတော် ယသောဓရာ ဟူသော သားတော် သမီးတော် နှစ်ပါးကို ဖွားမြင်ခဲ့လေသည်။ ဇယသေနမင်း၏ သားတော် သီဟဟနုနှင့် ဒေဝဒဟပြည် ဒေဝဒဟမင်း၏ သမီးတော် ကစ္စာနာတို့ စုံဖက်ကြရာတွင် သားတော် သုဒ္ဓေါဒန၊ သက္ကောဒန၊ သုက္ကောဒန၊ ဓောတောဒန၊ အမိတောဒန၊ ၁မီးတော် အမိတာ၊ ပါလိတာ ဟူသော သားတော် သမီးတော် ခုနစ်ပါးကို ဖွားမြင်ခဲ့လေသည်။

သီဟဟနုမင်းကြီး၏ သားတော် သုဒ္ဓေါဒနနှင့် ဒေဝဒဟပြည် အဥ္စနမင်းကြီး၏ သမီးတော် သိရိမဟာမာယာတို့ စုံဖက်ကြရာတွင် ဘုရားအလောင်းတော် သိဒ္ဓတ္ထမင်းသားကို ဖွားမြင်ခဲ့လေသည်။ ထို့ကြောင့် သုဒ္ဓေါဒနမင်းကြီးအား 'ဘခမည်းတော်'ဟူသောဂုဏ်ထူးဖြင့် ချီးကျူးခေါ်ဆိုရခြင်း ဖြစ်လေသည်။ (မယ်တော်မာယာ။ သိဒ္ဓတ္ထမင်းသား — လည်းရှု။)

ထိုသုဒ္ဓေါဒနမင်းကြီး၏ အကြောင်းအရာ အဌုပ္ပတ္တိကို ဗုဒ္ဓဝင် မဟာဝင် စသော ကျမ်းဂန်တို့မှ ထုတ်နုတ်၍ အကျဉ်းအားဖြင့် ပြဆိုပေအံ့။

သုဒ္ဓေါဒနမင်းကြီးသည် ဘုရားလောင်း ငယ်စဉ်အခါ ကာဠဒေဝီလ ရသေ့၏ ဦးထိပ်၌ တက်၍ ခြေတော်အစုံ တင်သည်ကို မြင်၍ ဘုရားလောင်းအား ဦးစွာ ပဌမ ရှိခိုး၏။ ဇမ္ဗုသပြေပင်ရိပ်၌ သိပ်ထားလေသော် သပြေပင်ရိပ်သည် မပြောင်းမရွေ့ ပြကတေ့အတိုင်း တည်သည်ကိုမြင်၍ ဒုတိယအကြိမ် ရှိခိုး၏။ ဘုရားဖြစ်ပြီးနောက် ဆွေတော် မျိုးတော်တို့အား ပြတော်မူသော ရေမီးအစုံ တန်ခိုးပြာဋိဟာကို မြင်၍ တတိယအကြိမ် ရှိခိုး၏။

သုဒ္ဓေါဒနမင်းကြီးသည် မြတ်စွာဘုရား ကပိလဝတ်ပြည် နိဂြောဓာရုံ ကျောင်းတော်၌ သီတင်းသုံးနေတော်မူသော အခါ ရဟန္တာအပေါင်း နှစ်သောင်းနှင့်တကွ ကပိလဝတ်ပြည်တွင်းသို့ ဆွမ်းခံဝင်တော်မူသည်ကိုမြင်၍ လျင်မြန်စွာ နန်းထက်က ဆင်းလာပြီးလျှင် မြတ်စွာဘုရားကို ရှိခိုးလျက် 'အရှင်ဘုရား အဘယ်ကြောင့် ကျွန်ုပ်တို့ကို အရှက်ခွဲဘိသနည်း။အကျွန်ုပ်တို့ အသမ္မိန္နခတ္တိယမင်းမျိုးသည် တောင်းစားရိုးမရှိ။ ကြီးထဂုဏ်အင် ဆင်များ မြင်းများ ရွှေရထားဖြင့် သွားနေကျဖြစ်လျက် မရှုံမရှက် အိုးခွက် လက်စွဲ မျက်နှာမွဲနှင့် အဘယ်ကြောင့် ဤကဲ့သို့ပြုပါသနည်း။ဤမျှသော ရဟန်းသံဃာတို့အား ဆွမ်းကို အကျွန်ုပ် မတတ်နိုင်ဟု အမှတ် ထားတော်မူပါသလော'ဟု လျှောက်ထား၏။ မြတ်စွာဘုရားလည်း ခရီးလမ်းမ၏ အလယ်၌ ရပ်တော်မူလျက်ပင် အိမ်စဉ်မပြတ် ဆွမ်းခံဝတ်ကား မချွတ်စေရ သမ္မုဒ္ဓတို့ ဝံသနွယ်စစ် ကျင့်ရိုးဖြစ်သည်ဟု မိန့်တော်မူပြီးလျှင် —

ဥတ္တိဋ္ဌေ နပ္ပမဇ္ဇေယျ၊ ဓမ္မံ သုစရိတံ စရေ။
ဓမ္မစာရီ သုခံ သေတိ၊ အသ္မိံ လောကေ ပရမှိ စ။

ဟူသော ဂါထာကို ဟောတော်မူ၏။

ထကြွ လှုံ့လရှိခြင်း၌ မမေ့မလျော့ရာ၊ ကောင်းသော အကျင့်တရားကို ကျင့်ရာ၏။ တရားကို ကျင့်သောသူသည် ဤလောက၌၎င်း၊ တမလွန်လောက၌၎င်း ချမ်းသာစွာ နေရ၏။ (ဤကား ဂါထာ၏ အဓိပ္ပာယ်တည်း။) ဤဂါထာ၏ အဆုံး၌ မင်းကြီးသည် သောတာပန်အဖြစ်သို့ရောက်လေ၏။

ထိုမှတဖန် နန်းတော်သို့ ရောက်သောအခါ —

ဓမ္မံ စရေ သုစရိတံ၊ န နံ ဒုစ္စရိတံ စရေ။
ဓမ္မစာရီ သုခံ သေတိ၊ အသ္မိံ လောကေ ပရမှိ စ။

ဟူသော ဂါထာကို ဟောတော်မူ၏။

ကောင်းသော အကျင့်တရားကို ကျင့်ရာ၏။ မကောင်းသော အကျင့်တရားကို မကျင့်ရာ။ တရားကို ကျင့်သောသူသည် ဤလောက၌၎င်း၊ တမလွန်လောက၌၎င်း ချမ်းသာစွာ နေရ၏။ (ဤကား ဂါထာ၏ အဓိပ္ပာယ်တည်း။) ဤဂါထာ၏ အဆုံး၌ မင်းကြီးသည် သကဒါဂါမ် အဖြစ်သို့ ရောက်လေ၏။

သုဒ္ဓေါဒန မင်းကြီးသည် မြတ်စွာဘုရားအား အရှင်ဘုရား၊ အရှင်ဘုရားတို့၏ ဒုက္ကရစရိယာ ကျင့်တော်မူသော အခါ နတ်သားတဦး လာလတ်၍ အရှင်မင်းကြီး၏သား သေလေပြီ ဟု ပြောသော်လည်း မယုံကြည်ကြောင်း လျှောက်ထားသည်ကို အကြောင်းပြု၍ မဟာဓမ္မပါလဇာတ်ကို ဟောတော်မူ၏။ ဒေသနာတော်၏ အဆုံး၌ မင်းကြီးသည် အနာဂါမ်အဖြစ်သို့ ရောက်လေ၏။

သုဒ္ဓေါဒနမင်းကြီးသည် မြေးတော် ရာဟုလာအား ရှင်သာမဏေပြုသော အကြောင်းနှင့်စပ်၍ မြတ်စွာဘုရားအား အရှင်ဘုရား၊ သားမြေးတို့၌ ချစ်ခြင်းသည် အပေါ်ရေ၊ အတွင်းရေ၊ အသား၊ အကြော၊ အရိုးတို့ကို ဖြတ်၍ ရိုးတွင်းခြင်ဆီသို့ ထိရောက်ကာ တည်ရှိပါသည်။ အကျွန်ုပ်တောင်းပန်ပါသည်။ အမိအဖတို့ ခွင့်မပြုသော သားကို ရှင်ရဟန်း မပြုပါလင့်ဟု လျှောက်ထားသည်ကို အကြောင်းပြု၍ မြတ်စွာဘုရားသည် —

'န ဘိက္ခဝေ အနနုညာတော မာတာပိတူဟိ ပုတ္တော

ပဗ္ဗာဇေတဗ္ဗော၊ ယော ပဗ္ဗာဇေယျ၊ အာပတ္တိဒုက္ကဋဿ' (အမိအဖတို့ ခွင့်မပြုသော သားကို ရှင် ရဟန်းမပြုရ၊ ပြုလျှင် ဒုက္ကဋ်အာပတ် သင့်စေ)ဟု ပညတ်တော်မူ၏။

မြတ်စွာဘုရား ဝေသာလီပြည်သို့ ရောက်၍ တလကျော် ရှိသောအခါ ဘခမည်းတော် သုဒ္ဓေါဒနမင်းကြီးသည် ကြီးမား သည်းထန်စွာ ရောဂါကပ်လာကြောင်း လျှောက်ထားရန် အမတ်တယောက် စေလွှတ်လိုက်သဖြင့် မြတ်စွာဘုရားသည် ကပိလဝတ်ပြည် နိဂြောဓာရုံကျောင်းသို့ရောက်၍ သုံးရက်မြောက်သောအခါ မင်းကြီးသည် ထီးဖြူအောက်၌ အသရေရှိသော အိပ်ရာဝယ် လျောင်းလျက် ဘုရားတရားတော်ကို နာယူစဉ်ပင်အရဟတ္တဖိုလ်သို့ရောက်၍ပရိနိဗ္ဗာန်စံဝင်လေ၏။

မြတ်စွာဘုရားသည် ဘခမည်းတော် သုဒ္ဓေါဒနမင်းကြီး၏ အလောင်းတော်ကို ကောင်းမွန်တင့်တယ်စွာ တန်းဆာဆင်ယင်လျက် နန်းဥကင်အချက်ဝယ် စကြဝတေးမင်း၏ အလောင်းကို သင်္ဂြိုဟ်သောနည်းဖြင့် သင်္ဂြိုဟ်တော် မူလေသတည်း။ **ဆရာဥာဏ်**

**သဒ္ဓမ္မာလင်္ကာရ ဆရာတော်။** ။စကားပြေခေတ် ဟု ခေါ်ဆိုအပ်သော ညောင်ရမ်းခေတ်၌ စကားပြေ အရေးအသားကို နိုင်နင်းစွာ ရေးသားနိုင်စွမ်းသော ပုဂ္ဂိုလ်များထဲတွင် သဒ္ဓမ္မာလင်္ကာရ ဆရာတော်လည်း အပါအဝင် ဖြစ်ပေသည်။ ဆရာတော်သည် အမျိုးလေးပါးတို့အား သဒ္ဓါ သီလ စသော သူတော်ကောင်းဥစ္စာနှင့် ပြည့်စုံ ကြွယ်ဝစေလိုသည့် အာသီသရှိရကား ဓမ္မပဒကျမ်းလာ သဒ္ဓါ သီလနှင့်သက်ဆိုင်သည့် ပုံပြင်များကို ထုတ်နုတ်၍ ရတနာကရ ဝတ္ထု ကျမ်း တစောင်ကို စကားပြေဖြင့် သက္ကရာဇ် ၁၀၄၂ ခုနှစ်တွင် ရေးသားလေသည်။ ထိုဝတ္ထုကျမ်းကို အစွဲပြု၍ ပိဋကတ်တော်သမိုင်းတွင် ဆရာတော်အား မဟာရတနာကရ ဆရာတော် ဟု ဘွဲ့တော် သ ထား၏။ ဆရာတော်၏ အရေးအသားမှာ စကားလုံး အဆန်းထွင်ခြင်းမရှိပဲ ပါဠိမှ မြန်မာသို့ သက်သက် ပြန်ယူ ရေးသားထားသကဲ့သို့ ရှိ၏။ ဆရာတော်သည် ပင်းယမြို့ ရွှေစည်းခုံကျောင်းတိုက်တွင် သီတင်းသုံးတော်မူသည်။ ဖွားသက္ကရာဇ် မိဖမည်ရည်တို့ကိုကား ကျမ်းဂန်များတွင် မတွေ့ရချေ။

**သိဒ္ဓတ္ထမင်းသား။** ။ဂေါတမမြတ်စွာဘုရားလောင်းဖြစ်တော်မူသော သိဒ္ဓတ္ထမင်းသားကို သက္ကတိုင်း၊ ကပိလဝတ်ပြည့်ရှင် သာကီဝင်မင်းမျိုး ဖြစ်သော သိရီသုဒ္ဓေါဒနမင်းကြီးနှင့် မိဖုရားခေါင်ဖြစ်သော သိရီမဟာမာယာ မိဖုရားကြီးတို့မှ မဟာသက္ကရာဇ် ၆၈ ခု ကဆုန်လပြည့် သောကြာနေ့ နံနက် ၁ ချက်တီးအချိန် ဝိသာခါ နက္ခတ်နှင့် စန်းအယှဉ်တွင် ကပိလဝတ်ပြည်မှ ဒေဝဒဟပြည်သို့အသွား လုမ္ဗိနီ အင်ကြင်းတော၌ ဖွားမြင်တော်မူသည်။ (သုဒ္ဓေါဒနမင်းကြီး။ မယ်တော် မာယာ — လည်းရှု။)၃၂ ပါးသော လက္ခဏာတော်ကြီး၊ ၈၀ သော လက္ခဏာတော်ငယ်တို့နှင့် ပြည့်စုံသော အလောင်းတော် မင်းသားသည် တပါးသော သူတို့ကဲ့သို့ လိမ်းကျံ ရစ်ထွေး ညစ်ကြေး သမ်းမို့ခြင်းမရှိ၊ ပကတိ သွန်းသစ်သော ဇမ္ဗူရစ်ရွှေစင်ကဲ့သို့ စင်ကြယ်စွာ ဖွားမြင်တော်မူလာသည်။ ထိုနောက် အလောင်းတော်သည် အရှေ့အရပ်မှ မြောက်သို့ လှည့်တော်မူလျက် ခုနစ်ဖဝါးသွား၍ မတ်မတ်ရပ်တန့်ပြီးလျှင် —

အဂ္ဂေါ ဟ မသ္မိ လောကဿ၊

ဇေဋ္ဌော ဟ မသ္မိ လောကဿ၊

သေဋ္ဌော ဟ မသ္မိ လောကဿ၊

ဟူ၍ သုံးခွန်းသော စကားဖြင့် ကြုံးဝါးတော် မူလေသည်။ အဓိပ္ပာယ်ကား ငါသည် လူအပေါင်းတို့ထက် အမျိုးအားဖြင့် မြတ်၏။ ငါသည် လောကသုံးပါးထက် ကြီး၏။ ငါသည် လူသုံးပါးတို့ထက် အထူးသဖြင့် ခြီးမွမ်းအပ်၏ ဟူ၍ဖြစ်သည်။ ထိုနောက် အလောင်းတော်မင်းသားကို ကပိလဝတ်ပြည်သို့ ပြန်ပို့ကြလေသည်။

အလောင်းတော် ဖွားသည်နှင့် တပြိုင်နက် ဖွားဖက်တော် ခုနစ်ဦး ဖြစ်သော ဘဒ္ဒကစ္စနာ မင်းသမီး၊ အာနန္ဒာမင်းသား၊ ဆန္နအမတ်၊ ကာဠုဒါယီအမတ်၊ ကဏ္ဍကမြင်း တို့ကို အသီးအသီး ဖွားမြင်ကြ၍ မဟာဗောဓိပင်နှင့် ရွှေအိုးကြီး လေးလုံးတို့လည်း ပေါ်ပေါက်လာကြလေသည်။

သုဒ္ဓေါဒနမင်းကြီး၏ ဆရာဖြစ်သော ကာဠဒေဝီလ ရသေ့သည် ဘုရားလောင်း မင်းသား ဖွားမြင်ကြောင်းကို နတ်တို့ထံမှ ကြားသိရသဖြင့် မင်းကြီးနန်းတော်သို့ ကြွလာ၏။ မင်းကြီးသည် သားတော်ကို ရင်ခွင်၌ ထား၍ ရသေ့အား ရှိခိုးစိမ့်သောငှာ လက်နှစ်ဖက်ကို ယှက်စေသော် အလောင်းမင်းသား၏ ဖဝါးတော်အစုံသည် လျှပ်ခြည်စက်ကဲ့သို့ ပျံတက်ကာ ရသေ့၏ ဦးထိပ်ပြင်ထက်၌ တည်လေ၏။ ဤကဲ့သို့ အံ့ဖွယ်သရဲဖြစ်သည်ကို မြင်ရလျှင် ရသေ့သည်ထ၍ ရှိခိုးဦးတိုက်၏။ မင်းကြီးလည်း သားတော်မြတ်ကို တုပ်ဝပ်ရိုကျိုးရှိခိုးလေသည်။ ထိုနောက်ရှင်ရသေ့က ဤမင်းသားသည် စင်စစ်လျှင်ဘုရားဖြစ်လတ္တံ့၊ သို့သော် ငါမူကား မင်းသားဘုရားဖြစ်သည်ကို ဖူးမျှော်ရမည်မဟုတ်ဟု မိန့်တော်မူလေသည်။

အလောင်းတော်မင်းသားကိုဖွားမြင်ပြီးသည့်နောက်ငါးရက်မြောက်နေ့၌ အမည်မှည့်ရန် ရွေးချယ်ကြရာ အလုံးစုံသော လူနတ်တို့၏ အလိုခပ်သိမ်းကို ပြီးငြိမ်းစေတတ်ရကား 'သိဒ္ဓတ္ထကုမာရ' ဟူ၍ အမည်မှည့်၏။ ခုနစ်ရက်မြောက်သော နေ့၌ကား မယ်တော် သိရီမဟာမာယာ မိဖုရားသည် စုတေ၍ ဘုရားမယ်တော်တို့၏ဖြစ်ရာ တုသိတာနတ်ပြည်ဝယ်



**သိဒ္ဓတ္ထမင်းသား တောမထွက်မီ ယသောဓရာ၏အဆောင်သို့ သွားရောက်၍ သားတော်ရာဟုလာကို ရှုစားဟန် ပန်းပုရုပ်လုံး**

သန္တုဿိတ အမည်ရှိသော နတ်မင်းဖြစ်လေသည်။ မယ်တော် နတ်ရွာစံခဲ့သော် မိထွေးတော် မဟာပဇာပတိ ဂေါတမီ မိဖုရားသည် သားတော်နန္ဒမင်းသားကို နို့ထိန်းတို့အား အပ်၍ အလောင်းမင်းသားကို ကိုယ်တိုင် နို့တိုက်၍ မွေးမြူတော်မူလေသည်။ သိဒ္ဓတ္ထမင်းသားကိုဖွား၍ တလမြောက်သောအခါ ခမည်းတော် မင်းကြီးသည် အခြံအရံတို့နှင့် လယ်ထွန်မင်္ဂလာပြုတော်မူရာတွင် မင်းသားကို ဇမ္ဗူသပြေပင်ရင်းဝယ် ကောင်းမြတ်သောနေရာ၌ ထား၏။ အထိန်းမိန်းမတို့လည်း မင်းကြီး၏လယ်ထွန်သဘင်ကိုကြည့်ရှုနေသဖြင့် မေ့လျော့နေစဉ်ကွင် အလောင်းမင်းသားသည် သိပ်ထားရာမှထက်ဝယ်ဖွဲ့ခွေထိုင်နေတော်မူပြီးလျှင် အာနာပါန ကမ္မဋ္ဌာန်းကို စီးဖြန်းရင်း ပဌမဈာန်ကို ဝင်စားတော်မူ၏။ အလောင်းမင်းသား၏ အာနုဘော်ကြောင့် ဇမ္ဗူသပြေပင်ရိပ်သည် နံနက်မှ မွန်းစောင်းသည့်တိုင်အောင် မပြောင်းမရွေ့ပဲ ထီးဝန်းအုပ်သကဲ့သို့ တည်နေတော့၏။ ထိုအခြင်းအရာကိုမြင်သော မင်းကြီးသည် ဝမ်းမြောက်လှရကား လက်အုပ်ချီမိုး၍ ရှိခိုးပူဇော်တော်မူ၏။ ဤကား ခမည်းတော်၏ နှစ်ကြိမ်မြောက် ရှိခိုးခြင်းတည်း။

အလောင်းတော်မင်းသား ၁၆နှစ်အရွယ်သို့ရောက်သောအခါ ဒေဝဒဟပြည့်ရှင် သုပ္ပဗုဒ္ဓမင်း၏ သမီးတော် ဘဒ္ဒကစ္စနာနှင့် ထိမ်းမြား၍ ယသောဓရာ ဗိမ္ဗာဒေဝီ ဟူသောအမည်ဖြင့် ဘိသိက်ခံကာ အဂ္ဂမဟေသီ ထားတော်မူသည်။ ထိုနောက် ပြာသာဒ်သုံးခုဝယ် ဥတုအလှည့်အလည်အားဖြင့် မိန်းမအခြံအရံများဖြင့်သာလျှင် ၁၃ နှစ်တိုင်တိုင် ပျော်စံတော်မူလေသည်။။ (ယသောဓရာ — လည်းရှု။)

မင်းသားသက်တော် ၂၉ နှစ်သို့ရောက်သောအခါ တနေ့



သိဒ္ဓတ္ထမင်းသား တောမထွက်မီ ယသောဓရာ၏ အဆောင်သို့ သွားရောက်၍ သားတော်
ရာဟုလာကို ရှုစားဟန်– ရှေးမြန်မာပန်းချီလက်ရာ

၌ ဥယျာဉ်တော်သို့ထွက်တော်မူရာ ဥယျာဉ်အနီးတွင် နတ်တို့က သူအိုအသွင်ဖန်ဆင်း၍ပြ၏။ နောက်လေးလအကြာ ဥယျာဉ်တော်သို့ ထွက်ပြန်ရာ သူနာအသွင်ကို ဖန်ဆင်း၍ ပြ၏။ နောက်လေးလအကြာ ထွက်တော်မူပြန်လျှင် သူသေအသွင်ကို ဖန်ဆင်း၍ပြ၏။ နောက်လေးလ တကြိမ်တွင်လည်း ရဟန်းအသွင်ကို ဖန်ဆင်း၍ ပြ၏။ ဤသို့ သူအို၊ သူနာ၊ သူသေ၊ ရဟန်းတည်းဟူသော နိမိတ်လေးပါးထင်လာသည်နှင့် ကြောက်လန့်ပြီးလျှင် အလွန်သံဝေဂရှိတော်မူလေသည်။ ထိုအခိုက်တွင် ဘဒ္ဒကစ္စနာတွင်လည်း သားတော်ရာဟုလာကို ဖွားမြင်တော်မူပြန်ရာ ကျဉ်းကျပ်သော နှလုံးတော်ရှိလှသဖြင့် ထိုညဉ့်တွင်ပင် တောထွက်အံ့ဟု ကြံတော်မူ၏။ ကြံသည့်အတိုင်း သက်တော် ၂၉ နှစ် မဟာသက္ကရာဇ် ၉၇ ခု ဝါဆိုလပြည့် တနင်္လာနေ့ညဉ့် သန်ကောင်ယံအချိန်တွင် ဖွားဖက်တော် ကဏ္ဍကမြင်းကိုစီး၍ ငယ်ဖော်ဆန္နကို အမြီးကဆွဲစေလျက် တောထွက်တော်မူလေသည်။

တောထွက်၍ ယူဇနာ ၃၀ ကျော်မျှဝေးသော အနောမာမြစ် တဖက်ကမ်းသို့ ရောက်သောအခါ ဗြဟ္မာမင်း ဆက်ကပ်လှူဒါန်းသော ပရိက္ခရာရှစ်ပါးနှင့် ကြာသင်္ကန်းဖြင့် ရဟန်းပြုတော်မူ၏။ ရဟန်းအဖြစ်ဖြင့် ဒုက္ကရစရိယာခြောက်နှစ်တိုင်အောင် ကျင့်တော်မူပြီးသည်၏ အဆုံး၌ သဗ္ဗညုတရွှေဉာဏ်တော်ကိုရ၍ သက်တော် ၃၅ နှစ်၊ သက္ကရာဇ် ၁၀၃ ခု ကဆုန်လပြည့် ဗုဒ္ဓဟူးနေ့အကုန် နေအရုဏ်တက်သည်နှင့် ဘုရားအဖြစ်သို့ ရောက်တော်မူလေသည်။ ဘုရား၏အမည်ကား ဂေါတမ မြတ်စွာဘုရားတည်း။ ဘုရားဖြစ်တော်မူပြီးနောက် ၄၅ ဝါပတ်လုံး လူနတ်ဗြဟ္မာ အပေါင်းတို့အား တရားရေအေးအမြိုက်ဆေးတိုက်ကျွေးတော်မူပြီးလျှင်သက်တော် ၈၀၊ သက္ကရာဇ် ၁၄၈ ခု ကဆုန်လပြည့်အင်္ဂါနေ့နံနက်မိုးသောက်ယာမ်ဘွင် ပရိနိဗ္ဗာန်စံဝင်တော်မူလေသည်။

**သန့်စင်ပန်း။** ။သဇင်ပန်း — ရှု။

**သန်ကောင် စာရင်း။** ။တိုင်းပြည် အတွင်း မှီတင်းနေထိုင်ကြသော လူဦးရေ အားလုံးကို တယောက်စီတယောက်စီ၏ အသက်၊ လူမျိုး၊ ကိုးကွယ်သည့် အယူဝါဒ၊ ယောကျ်ား၊ မိန်းမ၊ အလုပ်အကိုင်မှ အစ၊ တယောက်စီတယောက်စီနှင့် သက်ဆိုင်သမျှ အကြောင်းအရာ အစုံအလင် မှတ်သားထားသော စာရင်းကို သန်ကောင်စာရင်းဟု ခေါ်၏။ တနည်းအားဖြင့် သန်ကောင်စာရင်းကို လူဦးရေ စာရင်းဟု ဆိုနိုင်၏။ သန်ကောင်စာရင်း ကောက်ယူရေး ဝန်ထမ်းတို့က အိမ်များတွင် လူစုံရှိတတ်သည့် ညဉ့်အချိန်များ၌တအိမ်တက်ဆင်း လှည့်လည်ကောက်ယူခဲ့သောကြောင့် သန်ကောင်စာရင်း ဟု ခေါ်တွင်ခဲ့ဟန် တူသည်။ သို့ရာတွင် သန်ကောင်စာရင်း ကောက်ယူခြင်းမှာ တဖြည်းဖြည်း တိုးတက်ကောင်းမွန်၍ လွယ်ကူမှု ရှိလာသောကြောင့် ညဉ့်အချိန် တအိမ်တက်ဆင်း လှည့်လည် ကောက်ယူသော စံနစ် မရှိတော့သလောက် ဖြစ်နေပေပြီ။ ယခုအခါတွင် သန်ကောင် စာရင်း ကောက်ယူရန်အတွက် ခန့်ထားသော ဝန်ထမ်းများသည် သက်ဆိုင်ရာ ကျေးရွာ နယ်မြေများသို့ သွားရောက်ကာ ဆိုင်ရာ ရွာသူကြီး အကူ အညီဖြင့် သန်ကောင်စာရင်းကို ညွှန်ကြားချက်အတိုင်း ကောက်ယူမှတ်သားကြရသည်။ အိမ်တိုင်း အိမ်တိုင်းသို့ မိမိတို့၏ အမည်၊ အသက်၊ လူမျိုး၊ ကိုးကွယ်သည့် အယူဝါဒ၊ ယောကျ်ား၊ မိန်းမ၊ အလုပ်အကိုင်မှ အစ တယောက်စီတယောက်စီနှင့် သက်ဆိုင်သမျှ အကြောင်းအရာ အစုံအလင်ကို ဖြေဆိုရန် မေးခွန်းပုံစံ စာရွက်များ ဝေ၍ နေထိုင်သူတို့က ထိုပုံစံများကို ဖြည့်သွင်းပေးကြရသည်။ ထိုအခါတွင် ဝန်ထမ်းက ထိုစာရင်း မှန် မမှန်ကို ကိုယ်တိုင်စစ်ဆေးပြီးမှ ကျေးရွာအလိုက် စာရင်းချုပ် ပြုလုပ်ရသည်။ ယင်းသို့ ဝန်ထမ်းများက ကောက်ယူပေးသော စာရင်းများကို မြို့ပိုင်ရုံးမှ တဖန် စစ်ဆေးပြီးလျှင် မြို့နယ်အလိုက် စာရင်းချုပ် ပြုလုပ်၍ ဆိုင်ရာ နယ်ပိုင်ရုံးသို့ တင်ရ၏။ နယ်ပိုင်ရုံးမှလည်း ထိုအတူ စစ်ဆေးကာ စာရင်းချုပ်အဆင့်ဆင့် ပြုလုပ်ရလေသည်။

ဤသို့ဖြင့် စာရင်းကောက်ယူခြင်း ပြီးစီးသောအခါ သန်ကောင်စာရင်း စစ်ဆေးရေး အထူးအရာရှိများ ခန့်ထား၍ သေချာသည်ထက် သေချာအောင် စစ်ဆေးရပြန်သည်။ ယင်းသို့ စစ်ဆေးပြီး၍ သေချာသောအခါတွင် သန်ကောင်စာရင်းမှာ အတည်ဖြစ်သဖြင့် ပြင်ဆင်ခြင်း ဖြည့်စွက်ခြင်း မပြုရတော့ချေ။

မြန်မာနိုင်ငံတွင် သန်ကောင်စာရင်းကို အင်္ဂလိပ်အစိုးရလက်ထက်၌ ဆယ်နှစ်တကြိမ် ကောက်ယူခဲ့သည်။

အင်္ဂလိပ် အစိုးရသည် ၁၈၇၂ ခုနှစ်တွင် ပဌမဆုံး သန်ကောင်စာရင်းကို ကောက်ယူခဲ့၏။ ထိုနောက် ၁၈၈၁ ခုနှစ်မှ စ၍ ဆယ်နှစ်တကြိမ် ၁၉၄၁ ခုနှစ်အထိ သန်ကောင်စာရင်း ကောက်ယူခဲ့သည်။ စစ်ပြီးခေတ်တွင် ပြည်ထောင်စုမြန်မာနိုင်ငံ အစိုးရသည် ၁၉၅၃ ခုနှစ်မှ ၁၉၅၅ ခုနှစ်အထိ အဆင့်သုံးဆင့်ဖြင့် သန်ကောင်စာရင်း ကောက်ယူရန် စီမံကိန်း ချမှတ်ခဲ့၍ ပဌမဆင့် အနေဖြင့် ၁၉၅၃ ခုနှစ်တွင် မြို့ပေါင်း ၂၅၂ မြို့၏ သန်ကောင်စာရင်းကို ကောက်ယူခဲ့၏။ ၁၉၅၄ ခုနှစ်တွင် ဒုတိယဆင့် အနေဖြင့် ကျေးရွာအုပ်စုပေါင်း ၂၁၄၃ အုပ်စု၏ သန်ကောင် စာရင်းကို ကောက်ယူခဲ့သည်။ သို့သော် ထိုသို့ အဆင့်ဆင့်ကောက်ယူခဲ့သော သန်ကောင် စာရင်းများသည် မြန်မာနိုင်ငံ၏ အကျယ်အဝန်း ၃၀ ရာခိုင်နှုန်းအတွက်ခန့်သာ ဖြစ်ခဲ့ရကား



၁၉၇၃ ခုနှစ် ဧပြီလ ၁ ရက်နေ့မှ ၅ ရက်နေ့အတွင်း မြန်မာတနိုင်ငံလုံးတွင် သန်ကောင်စာရင်း ကောက်ယူခဲ့သည်။

ကျန် နိုင်ငံ၏ ၇၀ ရာခိုင်နှုန်း အကျယ်အဝန်းအတွက် သန်ကောင်စာရင်းကို ၁၉၆၁ ခုနှစ်တွင် ကောက်ယူရန် ရွေး ဆိုင်းခဲ့သော်လည်း မကောက်ယူဖြစ်ခဲ့ပေ။

ထိုသို့ ကောက်ယူခဲ့သော သန်ကောင်စာရင်းများသည် ကိုလိုနီခေတ်နှင့် အရင်းရှင်ခေတ်တို့၏ အခြေအနေများသာ ဖော်ပြသည့် စာရင်းအင်းများ ဖြစ်နေပြီးလျှင် လက်ရှိ အခြေအနေနှင့် မကိုက်ညီတော့သဖြင့် လက်ရှိ တိုင်းပြည်၏ အခြေအနေနှင့် ကိုက်ညီသော အခြေခံ လူဦးရေ စာရင်း အင်းများ၊ လူမှုရေး၊ စီးပွားရေး အခြေအနေကို ဖော်ပြသည့် စာရင်းအင်းများကို ကောက်ယူရန် လိုအပ်လာသည့် အတွက် ၁၉၇၃ ခုနှစ် ဧပြီလ ၁- ရက်နေ့မှ ၅ ရက်နေ့အတွင်း သန်ကောင်စာရင်း ကောက်ယူခဲ့သည်။

သန်ကောင်စာရင်းယူသော စံနစ်သည် ရှေးရောမတို့ ခေတ်ကပင်လျှင် ရှိခဲ့၏။ ထိုအခါက နိုင်ငံသူ နိုင်ငံသား တို့သည် ငါးနှစ်တကြိမ် မိမိတို့၏အသက်၊ အလုပ်အကိုင်၊ သားသမီး၊ ကျေးကျွန်၊ မြေယာမှ အစ အကြောင်းအရာ အစုံအလင်ကို ဆင်ဆာလူကြီးများထံ သွားရောက် စာရင်း ပေးကြရသည်။

အင်္ဂလန်ပြည်၌ ဝီလျံ-သ-ကွန်ကားရား လက်ထက် ၁၀၈၆ ခုနှစ်တွင် မြေခွန်တော်နှင့် အခြား အခွန်တော်များ ကောက်ခံရေးနှင့် ဘုရင်ပိုင်မြေယာများ မည်မျှရှိသည်ကို သိနိုင်ရေးအတွက် လူဦးရေနှင့် မြေယာစာရင်းများကို ကောက်ယူ၍ ဒွမ်းစဒေးစစ်တမ်း ဟူသော အမည်ဖြင့် မှတ်တမ်းတင်ခဲ့ လေသည်။ ထိုစာရင်းမှာ အင်္ဂလန်ပြည် အတွင်းရှိ လူဦးရေ၊ စိုက်ပျိုးလုပ်ကိုင်သော မြေယာများ၊ မြင်းကျွဲနွားမှအစ သက်ရှိသက်မဲ့ပစ္စည်းများ၏ စာရင်းဖြစ်၍ ဘုရင်သည် စာရင်းကိုကြည့်ရုံမျှဖြင့် မိမိ၏ မှူးမတ်မှိုးစား နယ်စားများ မည်မျှ ချမ်းသာကြွယ်ဝ၍ မည်မျှတန်ခိုး အာဏာ ရှိသည်ကို သိနိုင်သည်။ ထိုစာရင်းတွင် မှတ်တမ်း တင်ထားသော အချက်အလက်များမှာ အတည်ဖြစ်၍ ပြုပြင်ဖြည့်စွက်ခြင်းမရှိရချေ။ (ဒွမ်းစဒေးစစ်တမ်း — ရှု။)

ရောမခေတ်က သန်ကောင်စာရင်းသည် ရောမအုပ်ချုပ် ရေးအရ အခွန်တော် ကောက်ခံရန်နှင့် လက်နက်ကိုင်၍ တိုက်နိုင်သူဦးရေ မည်မျှရှိသည်ကို သိရန်ဖြစ်၏။ ဝီလျံ ဘုရင်လက်ထက်က ဒွမ်းစဒေး စစ်တမ်းမှာလည်း ထို ရည်ရွယ်ချက်နှင့်ပင် ကောက်ယူသော်လည်း ပိုမို စုံလင်၏။

မြန်မာနိုင်ငံတွင်လည်း ရှေးမြန်မာမင်းများ လက်ထက် ကတည်းက သန်ကောင်စာရင်း ကောက်ယူသည့် အစီအစဉ်

များ ရှိခဲ့သည်။ သာလွန်မင်းတရားကြီး၊ လက်ထက် သက္ကရာဇ် ၉၉၉ ခုနှစ်တွင် စီးပွားရေး ပြန်လည်ထူထောင်ရန်နှင့် လူဦးရေအင်အား ပြန်လည်ဖြည့်တင်းရန် လက်ရှိအခြေအနေမှန်ကို သိရှိရန်အတွက် နိုင်ငံတော်လူဦးရေ၊ အိမ်ခြေ၊ မြေအကျယ်အဝန်း၊ ထွက်သည့် အသီးအနှံ၊ စီးပွားရေး အခြေအနေနှင့် ပေးဆောင်ရသည့် အခွန်အတုတ် နှုန်းတို့ကို စစ်သည့် စစ်တမ်းတခု ကောက်ယူခဲ့သည်။ (သာလွန်မင်းတရား — လည်းရှု။) ဘိုးတော်ဘုရား လက်ထက် ၁၁၄၅ ခုနှစ်တွင် သာလွန်မင်းတရား လက်ထက်ကကဲ့သို့ မြို့ရွာ နယ်ပယ် လူနေအိမ်ခြေ ထွက်သောသီးနှံ အရောင်းအဝယ် အခွန်အကောက်နှုန်း စသည်တို့ကို စစ်တမ်း ထုတ်စေခဲ့သည်။ (ဘိုးတော်ဘုရား — လည်းရှု။) ယင်းသည့်စစ်တမ်းများကား ယခုခေတ် သန်ကောင်စာရင်းများပင် ဖြစ်၏။

ယခုခေတ်တိုင် အချို့လူများသည် သန်ကောင်စာရင်းကို အခွန်တော် စည်းကြပ် ကောက်ခံရန် မင်းတိုင်းကြေးခန့်ခွဲရန် သက်သက် ဟု ယူဆကြကာ မိမိတို့၏ အမည်စာရင်းကို မပေးသွင်းပဲ ထားတတ်ကြ၏။ သို့မဟုတ် ပေးသွင်းရန် သတိမရပဲ အမှတ်မဲ့ပင် နေတတ်ကြသည်။ သို့ရာတွင် ထိုသို့ စာရင်းမသွင်းပဲ ထားခြင်း၊ အမှတ်မဲ့နေခြင်းတို့မှာ ထိုသို့ နေသူ၏ အမှားသာ ဖြစ်၏။ အဘယ်ကြောင့် ဆိုသော် သန်ကောင်စာရင်း ကောက်ယူပုံနှင့် သန်ကောင်စာရင်း ကောက်ယူခြင်း၏ သဘောတို့မှာ ရှေးရှေးအခါကနှင့် မတူတော့သောကြောင့် ဖြစ်သည်။

ယခုအခါ အခွန်တော်မှ အစ မင်းတိုင်း ကြေးများ အတွက် ဆိုင်ရာဌာန အသီးအသီး ရှိနေသောကြောင့် သန်ကောင်စာရင်းမှာ တိုင်းပြည်အုပ်ချုပ်ရေးတွင် အရေးကြီးသော အချက်အလက်များ အတွက် ဖြစ်လေသည်။ သန်ကောင်စာရင်းအရ တိုင်းပြည်တွင် လူဦးရေမည်မျှ၊ လယ်ယာစိုက်ပျိုးသူ မည်မျှ၊ စာတတ်သူ မည်မျှ၊ လက်နက်ကိုင် တိုက်ခိုက်သူ မည်မျှ စသည်တို့ကို သိနိုင်၍ လယ်ယာစိုက်ပျိုးရေး၊ ပညာရေး၊ ကျန်းမာရေး၊ စီးပွားရေးတို့ကို စီမံခန့်ခွဲရာတွင် သန်ကောင်စာရင်းကို အခြေပြု၍ စီမံရသည်။ တိုင်းပြည် အုပ်ချုပ်ရေးတွင် ပါဝင်သော ဌာနတိုင်း ဌာနတိုင်း၏ အင်အားသည် တိုင်းပြည်ရှိ လူဦးရေ အပေါ်တွင် အမှီပြု၍ ရှိရပေသည်။

ထိုအချက်များအပြင် တိုင်းသူ ပြည်သားများအဖို့ အလွန်အရေးကြီးသော မဲပေးပိုင်ခွင့်ကို သန်ကောင်စာရင်း အရသာလျှင် အတည်ပြုသောကြောင့် သန်ကောင်စာရင်း ကောက်ယူခြင်းမှာ ပြည်သူလူထု၏ အကျိုးဖြစ်သည် ဟု ဆိုရပေမည်။

ရှေး ရောမ သန်ကောင်စာရင်းနှင့် ဝီလျံဘုရင်၏ ဒွမ်းစဒေး စစ်တမ်းတို့၏ နောက်တွင် အင်္ဂလန်ပြည်၌ ၁၈၀၁ ခုနှစ်မှ အစပြုကာ ၁၀ နှစ်တကြိမ် သန်ကောင်စာရင်း မှန်မှန် ကောက်ယူခဲ့၏။ ၁၉၄၁ ခုနှစ်တွင်ကား ဒုတိယကမ္ဘာစစ်ကြီးကြောင့် မကောက်ခဲ့ရချေ။ အမေရိကန်ပြည်ထောင်စုတွင် ၁၇၉၀ ပြည့်နှစ်မှ စ၍ ၁၀ နှစ်တကြိမ် သန်ကောင်စာရင်း ကောက်ခဲ့၏။ ရုရှနိုင်ငံတွင်လည်း ၁၈၉၇ ခုနှစ်မှစ၍သန်ကောင်စာရင်းကောက်ယူခဲ့လေသည်။

စစ်ကြိုခေတ် သန်ကောင်စာရင်းသည် လူဦးရေကိုသာ အဓိကထားပြီးလျှင် စစ်ပြီးခေတ် သန်ကောင်စာရင်းများတွင်မူ လူဦးရေအပြင် စီးပွားရေးရာ၊ လူမှုရေးရာတို့နှင့် စပ်လျဉ်းသည့် အချက်အလက် အများအပြား ပါဝင်လေသည်။ စစ်ကြိုခေတ် သန်ကောင်စာရင်းများ ကောက်ယူရာ၌ လူဦးရေ တခုတည်းနှင့် စပ်လျဉ်းသည့် မေးခွန်းပေါင်း ၂၀ ခန့်သာ မေးခဲ့၍ စစ်ပြီးခေတ် သန်ကောင်စာရင်းများ ကောက်ယူရာတွင်မူ လူဦးရေ၊ စီးပွားရေး၊ လူမှုရေးတို့နှင့် စပ်လျဉ်းသည့် မေးခွန်းပေါင်း ၃၀၀ ကျော် မေးမြန်း၍ အချက်အလက်များ စုဆောင်းလာကြသဖြင့် တနည်းအားဖြင့် စီးပွားရေး စစ်တမ်းဟုပင် ခေါ်ဆိုလောက်ပေသည်။

**သန္တာ။** ။သန္တာကျွန်း သန္တာကျောက်တန်း၊ သန္တာကျွန်းခွေများဖြစ်ပေါ်လာအောင် လုပ်ကိုင်ဆောင်ရွက်ပေးသော သေးငယ်သည့် သန္တာကောင်ကလေးများသည် ပင်လယ်မှိုကောင်၊ ပင်လယ်ခူတို့နှင့်အတူ ဆီလင်တာရေးတား မျိုးပေါင်းစုတွင် အန်သိုဇိုအာ မျိုးပေါင်း၌ ပါဝင်သည်။ သန္တာကောင်ကလေးများသည် ပူနွေးသော သမုဒ္ဒရာများတွင် ရေတိမ်ပိုင်း၌ နေထိုင်ကျက်စားကြသည်။မည်မျှပင်သေးငယ်ကြသော်လည်း မိမိတို့ဆိုင်ရာ အလုပ်များကို လုပ်ကိုင်ရာမှ တဖြည်းဖြည်း ကျွန်းကြီးများ ကျောက်တန်းကြီးများ ဖြစ်ပေါ်လာလေသည်။

ပဌမတွင် မိခင်သန္တာကောင်သည် ရေထဲတွင်လွတ်လပ်စွာသွားလာကျက်စားလျက် ရှိရာမှ အချိန် အတန်ကြာလတ်သော် ကျောက်ပေါ်၌သော်၎င်း၊ အခြားသန္တာ အသေကောင်၏ အရိုးပေါ်၌သော်၎င်း ငြိတွယ်ကာ တနေရာမှ တနေရာသို့ လှုပ်ရှားသွားလာမှု မပြုနိုင်တော့ပဲ ရေအောက်အပင်ကဲ့သို့ တည်ငြိမ်နေတော့၏။ ထို့ကြောင့်လည်း ရှေးအခါက သန္တာကောင်များကို သက်ရှိသတ္တဝါဟုမထင်ကြပဲ ရေအောက် ပင်လယ်ပန်းပင်တမျိုးဟု မှတ်ယူခဲ့ကြသည်။

ယင်းသို့ တနေရာတွင်ငြိတွယ်၍ တည်ငြိမ်နေရာမှ တဖြည်းဖြည်း ခွက်အလေးသဖွယ် ကိုယ်ထည် ဖြစ်ပေါ်လာပြီးလျှင် အပေါ်ဖက် ပါးစပ်ပေါက်နှုတ်ခမ်းမှ လက်တံကဲ့သို့သော အာရုံမှင်များ ထွက်ပေါ်လာလေသည်။တနေ့တခြား ထိုအာရုံမှင်များ ရှည်ထွက်ပြီးလျှင် ရေထဲ၌မျောပါနေသည့်

လက်လှမ်းမှီရာ သက်ရှိသတ္တဝါကလေးများကို ဖမ်းစားခြင်း အားဖြင့် ထုံးခါတ်ထုတ်ကာ အရိုးများ ကြီးထွား ရှင်သန် လာလေသည်။ အချို့သော သန္တာကောင်မျိုးများသည် တကောင်ထီးတည်းသာ အသက်ထက်ဆုံး နေတတ်ကြ သော်လည်း များသောအားဖြင့်ကား ကုဋေပေါင်း ထောင် သောင်းမက စုပေါင်းဖွဲ့စည်းကာ စုရုံးနေထိုင်တတ်ကြ သဖြင့် တကောင်နှင့်တကောင် ခွဲခြား၍ပင်မရနိုင်ချေ။ မိခင် သန္တာကောင်မှ အဖူးကလေးများ ထွက်လာပြီးလျှင် ထို အဖူးကလေးများမှ တဖန် ခွက်ကဲ့သို့ကိုယ်ထည်များ၊ အာရုံ မှင်များ ထွက်လာကြပြန်သည်။ ထိုနောက် ထိုအဖူးများမှ အဖူးသစ်များ ထွက်လာပြန်ရာ အဆက်မပြတ် ပေါက်ပွား နေတော့၏။ သို့ဖြင့် တကောင်နှင့်တကောင်ဆက်၍မိသား စုကြီး ဖြစ်လာကာ တခါတရံ ဤမိသားစုကြီးသည် နှစ် ပေါင်းများစွာ တည်နေတော့၏။

သန္တာကောင်များမှ ပေါက်ပွားထွက်လာသော ထုံး ကျောက်အစိုင်အခဲများသည် တနှစ်ပြီးတနှစ် တဖြည်းဖြည်း ပွား၍ပွား၍လာခဲ့ရာမှ အစိုင်အခဲကြီးတခုဖြစ်အောင် ဆက် မိသွားတော့၏။ ယင်းသို့ဖြင့် ရာစုနှစ်ပေါင်းများစွာ ကြာ လတ်သော် သန္တာအသေကောင် ကုဋေပေါင်း များစွာ ပါဝင်သော ကျောက်တန်းသစ်များ ဖြစ်ပေါ်လာလေသည်။ ဤသို့ရှိစဉ် ကုဋေပေါင်းများစွာသော မိခင်သန္တာကောင်တို့ မှလည်း ကုဋေပေါင်းများစွာသော ဥများကို အုကြပြန်ရာ ထိုဥများမှပေါက်သော အကောင်များသည် မျောပါလိုရာ သို့ မျောပါပြီးလျှင် ငြိတွယ်ချင်ရာတွင် ငြိတွယ်၍ ထုံး ကျောက် အစိုင်အခဲသစ်များ ဖြစ်စေပြန်သည်။ သန္တာ ကောင်၏ အသက် ရှင်နေသော အပိုင်းသည် လိမ်မော်ဝါ ရောင်ဖြစ်၍ ရိုးတံမှာကား ဆွတ်ဆွတ်ဖြူလျက်ရှိ၏။

အမေရိကန်ပြည်ထောင်စု၊ ဖလော်ရီဒါကမ်းခြေအလွန် ပင်လယ်ရေအောက်တွင် အလွန်လှပသောသမုဒ္ဒရာဥယျာဉ် များနှင့်တူသည့် သန္တာကျွန်းများ ဖြစ်ပေါ်လျက် ရှိသည် ကို တွေ့နိုင်သည်။ အချို့သည် အရွက်သန္တာများ ဖြစ်၍ အချို့ကား အိုးကြီးများသဏ္ဌာန်ရှိပြီးလျှင် အချို့မှာ ဆတ် ချိုများကဲ့သို့ အခက်အလက်များ ထွက်လျက်ရှိသည်။ ဤ သန္တာ ကျောက်ခက်များသည် မည်မျှပင် လှပသော်လည်း ပုတီးစေ့နှင့် ရင်ထိုးများ ပြုလုပ်ရန်အတွက် အသုံးမပြုနိုင် ချေ။ ယင်းတို့ကို ရေမှဆယ်ယူလိုက်သည်နှင့် အရောင်ပျက် သွားသည့်ပြင် အရောင်တင်နိုင်လောက်အောင်လည်း မမာ လှန်းလှချေ။ အနီနှင့် ပန်းနုရောင်သန္တာတမျိုးကို မြေထဲ ပင်လယ် အချို့အပိုင်းဖြစ်သော အာဖရိကကမ်းခြေအလွန် နှင့်ဣတလီနိုင်ငံ အနောက်ဖက်ကမ်းခြေတို့တွင် အများဆုံး တွေ့ရသည်။ ထိုဒေသများတွင် သန္တာကို လိုက်လံရှာဖွေ၍ ရောင်းသောလုပ်ငန်းသည် အတော်ပင် ကြီးကျယ်သည်။ နှင်းဆီပန်းနုသွေးရောင် အကောင်းဆုံး သန္တာအကြီးစား မျိုးကို တအောင်စလျှင် ပေါင်စတာလင် ၈၀ အထိ ပေး ဝယ်ကြသည်။

သန္တာကျွန်းနှင့် သန္တာကျောက်တန်းများကို ပစိဖိတ် သမုဒ္ဒရာနှင့် အိန္ဒိယ သမုဒ္ဒရာ၏ ပူနွေးသောအပိုင်းများ၌ အမြောက်အမြား တွေ့ရသည်။ သန္တာများကို သုံးမျိုးသုံး စား တွေ့ရသည်။ သန္တာကျောက်တန်းများသည်ကမ်းခြေ မှ အတော်ဝေးဝေးနေရာတွင် ရှိကြသည်။ ဩစတြေးလီး ယားတိုက်မှ သန္တာကျောက်တန်းကြီးသည် မိုင် ၁,၀၀၀ ကျော်ရှည်လျား၍ ဆယ်မိုင်မှ မိုင် ၉၀ အထိ ကျယ်သည်။ သန္တာကျွန်းခွေများသည် ကမ်းခြေမှ ဝေးသော အရပ်၌ တည်ရှိ၍ ဖန်သားကဲ့သို့ ကြည်လင် ငြိမ်သက်လျက် ရှိသော ပင်လယ် ထုံးအိုင်ကြီးများကို ဝိုင်းရံလျက် ရှိတတ်သည်။

သန္ဓေဗေဒ။ ။အင်ဗရီဩလိုဂျီ — ရှု။

# ဘဝတခုတွင် အစစွာဖြစ်ခြင်း လေးမျိုး

**သန္ဓေဆိုသည်မှာ ဘဝတခုတွင် အစစွာဖြစ်ခြင်းကို ဆိုသည်။ သန္ဓေသည် သံသေဒဇ၊ ဩပပါတိက၊ အဏ္ဍဇ၊ ဂဗ္ဘသေယျက ဟူ၍ လေးမျိုးဖြစ်သည်။ လူတို့သည် အမိဝမ်းတွင်း၌ ကိန်းအောင်းနေရသောကြောင့် ဂဗ္ဘသေယျက အကြောင်း အထူးလေ့လာသင့်ပေသည်။**

**သန္ဓေလေးမျိုး။** ။သန္ဓေဆိုသည်မှာ တဘဝနှင့်တဘဝ ဆက်စပ်ခြင်း၊ တနည်း ဘဝတခုတွင် အစစွာ ဖြစ်ခြင်းကို ဆိုသည်။ တရားကိုယ်မှာ သက်ရှိသတ္တဝါ၏ နာမ်တရားနှင့် ရုပ်တရားပင်တည်း။ ယင်းသန္ဓေကို ပဋိသန္ဓေ ဟူ၍ ပါဠိ ဘာသာ၌ ခေါ်ဝေါ် သုံးစွဲကြသေးသည်။

ထိုသန္ဓေသည် (၁) သံသေဒဇ၊ (၂)ဩပပါတိက၊(၃) အဏ္ဍဇ၊ (၄) ဇလာဗုဇဟူ၍ လေးမျိုးဖြစ်သည်။ ဇလာ ဗုဇကို အမိဝမ်းတွင်း၌ ကိန်းအောင်း နေရသောကြောင့် ဂဗ္ဘသေယျက ဟုလည်း ခေါ်ဆိုသည်။ သန္ဓေလေးမျိုးကို ရေးသားရာ၌ ဇလာဗုဇအစား အခေါ်များအသိများသော ဂဗ္ဘသေယျကကို သုံးစွဲမည်။

သံသေဒဇဆိုသည်မှာ သစ်ပင်၊ ပန်းပင်၊ နွယ်ပင်၊ မစင်၊ ကျင်ကြီး၊ ကျင်ငယ်၊ ရေပုပ် ရေသိုးစသော အညစ်အကြေး ၌ဖြစ်သော ပဋိသန္ဓေကိုဆိုသည်။ ယင်းပဋိသန္ဓေ တည်နေ

**သော်** ပုဂ္ဂိုလ်များကား ပေါက္ခရသာတိပုဏ္ဏား၊ ဥပ္ပလဝဏ် ထေရီမ အလောင်းဖြစ်သော ပဒုမာဒေဝီ၊ အာသကာဒေဝီ၊ ကုမုဒမာလာတို့ဖြစ်ကြသည်။ ထိုပုဂ္ဂိုလ်တို့မှာ ပဒုမာကြာ တိုက်၌ ပဋိသန္ဓေနေကြသည်။ ပဒုမာဒေဝီကဖွားမြင်သော ပစ္စေကဗုဒ္ဓါအလောင်း သား ငါးရာတို့တွင်လည်း မဟာ ပဒုမမင်းသား တဦးသာ ပဒုမာဒေဝီ၏ ဝမ်းတိုက်၌ ဂဗ္ဘ သေယျက ပဋိသန္ဓေတည်နေသည်။ ကြွင်းသောသားတော် လေးရာ ကိုးဆယ့် ကိုးဦး တို့ကား မဟာပဒုမမင်းသားကို ဖွားမြင်ရာ၌ သွေးအညစ်အကြေး၌ သံသေဒဇ ပဋိသန္ဓေ တည်နေသည်။ အမ္ဗပါလိကာ ပြည့်တန်ဆာမသည် သရက် ပင်၌ ပဋိသန္ဓေတည်နေသည်။ စိဉ္စမာနဝိကာသည် မန် ကျည်းပင်၌ ပဋိသန္ဓေတည်နေသည်။

တိရစ္ဆာန်တို့တွင် အချို့လိပ်ပြာတို့သည် ဇလာယုမှုလီပင် ၌ ပဋိသန္ဓေတည်နေကြသည်။ ပိုးလောက်၊ မှက်၊ ခြင်၊ ယင် စသော သတ္တဝါတို့သည် မစင် ကျင်ကြီး ရေပုပ် ရေသိုး စသော အညစ်အကြေးတို့၌ ပဋိသန္ဓေတည်နေကြသည်။

ဩပပါတိက ဆိုသည်မှာ ဘုံ၊ ဗိမာန်၊ ဥယျာဉ်၊ ရေကန်၊ စသော ဌာနတို့၌ ဖြစ်သော ပဋိသန္ဓေကို ဆိုသည်။ ယင်း ပဋိသန္ဓေတည်နေသောပုဂ္ဂိုလ်များကား ခန္ဓာအိမ် တဖြည်း ဖြည်းကြီးပွားနေရသည်မဟုတ်၊ ပဋိသန္ဓေ တည်နေသည် နှင့် တပြိုင်နက် ယောကျ်ားဖြစ်လျှင် အသက်နှစ်ဆယ်၊ မိန်း မဖြစ်လျှင် တဆဲ့ခြောက်နှစ် လူလားမြောက်သော အရွယ် ဖြစ်လာကြသည်။ ဘုမ္မစိုးနတ်မှကြွင်းသော နတ်များ၊ ငရဲ သူ သတ္တဝါများ၊ နိဇ္ဈာမတဏှိက ပြိတ္တာများနှင့် ကမ္ဘာဦး ၌ ဖြစ်သောလူ စသော သတ္တဝါများမှာ ဩပပါတိက ပဋိ သန္ဓေတည်နေကြသည်။

အဏ္ဍဇဆိုသည်မှာ ဥ၌ဖြစ်သော ပဋိသန္ဓေကို ဆိုသည်။ ယင်း ပဋိသန္ဓေ တည်နေသော ပုဂ္ဂိုလ်များကား ဘိုးတော် အဥ္စမင်း ဖြိုကြွင်းသင်္ကရာဇ် ၇၉ ခု၌ ဥနှစ်လုံးမှ ပေါက်ဖွား ကြသော သုဝဏ္ဏဘူမိ သုဓမ္မဝတီပြည် တိဿဓမ္မသီဟရာဇာ မင်းကြီးနှင့် သုဘဒ္ဒါဒေဝီဘွဲ့ခံနာဂသူဇာမိဖုရားကြီးတို့ကား အဖ ဝိဇ္ဇာဓိုရ်၊အမိနဂါးမဝမ်း၌ပဋိသန္ဓေတည်နေကြသည်ဟု သထုံရာဇဝင်ပေါင်းချုပ်၌အဆိုရှိသည်။ ကြက်၊ ဘဲ၊ ငှက် စသော ကုန်းသတ္တဝါများနှင့် ငါး၊ ဖား၊ လိပ် စသော ရေ သတ္တဝါတို့လည်း အဏ္ဍဇပဋိသန္ဓေ တည်နေကြသည်။

ဂဗ္ဘသေယျက ဆိုသည်မှာ အမိဝမ်း၌ ကိန်းအောင်း၍ တည်ရသော ပဋိသန္ဓေကိုဆိုသည်။ တည်နေသောသတ္တဝါ များမှာ ဘုမ္မစိုးနတ်များ၊ နိဇ္ဈာမတဏှိက ပြိတ္တာမှတပါး သော ပြိတ္တာများ၊ လူများ၊ တိရစ္ဆာန်များကား ဂဗ္ဘသေ ယျကပဋိသန္ဓေ တည်နေကြသည်။ အထူးအားဖြင့် ယင်း ပဋိသန္ဓေ တည်နေရာ၌ (၁) အမိမှာ ရာသီပန်း ပွင့်ပြီး၍ သားအိမ်စင်ကြယ်ခြင်း၊ (၂) အမိ အဖ နှစ်ဦးတို့ပေါင်းဆုံ မိခြင်း၊ (၃) ပဋိသန္ဓေနေမည့် သတ္တဝါ ရှေးရှုတည်ရှိခြင်း၊ ဤအင်္ဂါသုံးပါးနှင့် ပြည့်စုံမှ ပဋိသန္ဓေတည်နေနိုင်သည်။

ထိုအင်္ဂါသုံးပါးတွင် အမိအဖ နှစ်ဦးတို့ ပေါင်းဆုံမိခြင်း ဆိုရာ၌ ဘုရားလောင်း ပဋိသန္ဓေ တည်နေရာ၌ မယ်တော် မဟာမာယာ မိဖုရားကြီးသည် ရှစ်ပါးသီလ စောင့်သုံးနေ သဖြင့် အမိအဖနှစ်ဦးတို့ပေါင်းဆုံမိခြင်းမရှိသည်ကို ထောက် ၍၎င်း၊ တေမိယဇာတ်တော်တွင် ဘုရားလောင်း တေမိမင်း သားပဋိသန္ဓေတည်နေရာ၌ မယ်တော် စန္ဒာဒေဝီမိဖုရားကြီး သည် ရှစ်ပါးသီလ စောင့်သုံးနေသဖြင့် အမိအဖ နှစ်ဦးတို့ ပေါင်းဆုံမိခြင်း မရှိသည်ကို ထောက်၍၎င်း အင်္ဂါသုံးပါး မညီညွတ်သောကြောင့် ပဋိသန္ဓေ မတည်နိုင်ဟု ယုံမှား သံသယ ဖြစ်ဖွယ်ရှိ၏။ သို့ဖြစ်ဖွယ် ရှိသော်လည်း ပဋိသန္ဓေ ကား တည်နေနိုင်သည်သာ။ အကြောင်းကား အမိအဖနှစ် ဦးတို့ ပေါင်းဆုံမိပြီး ခုနစ်ရက်အတွင်း၊ တနည်း ၁၅ ရက် အတွင်း ပဋိသန္ဓေ တည်နေနိုင်သောကြောင့် ဖြစ်သည်။

အမိအဖ နှစ်ဦးတို့ ပေါင်းဆုံမိခြင်း ဆိုရာ၌လည်း သံဝါသပြုမှသာ ပဋိသန္ဓေ တည်နေနိုင်သည်မဟုတ်။ စင်စစ် ကား အမိ၏ချက်ကို အဖက လက်ဖြင့် သုံးသပ်သောကြောင့် ၎င်း၊ အမိ၏ ကိုယ်အင်္ဂါအစိတ်အပိုင်းကို အဖက ကိုင်တွယ် သုံးသပ်သောကြောင့်၎င်း၊ အမိက အဖ၏ သုက်သွေးကို သောက်မျိုသောကြောင့်၎င်း၊ အဖ၏ သုက်သွေးကို အမိ၏ သားအိမ်တွင်းသို့ ထည့်သောကြောင့်၎င်း၊ ရာဂစိတ်ဖြင့် အဖ ၏အဆင်းကို မြင်ရသောကြောင့်၎င်း၊အသံကို ကြားရသော ကြောင့်၎င်း၊ အနံ့ကို နမ်းရှုရသောကြောင့်၎င်း၊ မိုးချုန်း သံကိုကြားရသောကြောင့်၎င်း၊ လေအတွေ့ကို ခံယူရသော ကြောင့်၎င်း ပဋိသန္ဓေ တည်နေနိုင်သည်။ ဘုရားလောင်း သုဝဏ္ဏသံ ပဋိသန္ဓေတည်နေရာ၌ ဒုကူလရသေ့က ပါရိကာ ရသေ့မ၏ ချက်ကို လက်မဖြင့် သုံးသပ် သောကြောင့် ပဋိ သန္ဓေ တည်နေသည်။ ဘုရားလောင်း ကုသမင်း ပဋိသန္ဓေ တည်နေရာ၌ ပုဏ္ဏားယောင် ဆောင်သော သိကြားမင်းက သီလဝတီ မိဖုရားကြီး၏ ချက်ကို လက်မဖြင့် သုံးသပ်သော ကြောင့် ပဋိသန္ဓေ တည်နေသည်။ မာတင်ဇာတ် မဏ္ဍဗျ သတို့သား ပဋိသန္ဓေတည်နေရာ၌ မာတင်ရသေ့က ဒိဋ္ဌမင်္ဂလိ ကာ သဌေးသမီး၏ချက်ကို လက်မဖြင့်သုံးသပ်သောကြောင့် ပဋိသန္ဓေတည်နေသည်။ ဥဇ္ဇေနီပြည် စန္ဒပဇ္ဇောတ မင်းကြီး ပဋိသန္ဓေတည်နေရာ၌ မယ်တော်မိဖုရားကြီး ဝမ်းပိုက်ပေါ် ကင်းလျှောက်သွားသောကြောင့် ပဋိသန္ဓေ တည်နေသည်။ ကုမာရ ကဿပ မထေရ် ပဋိသန္ဓေ တည်နေရာ၌ ဥဒါယီ မထေရ်၏ မယားဟောင်း ဖြစ်သော ဘိက္ခုနီမသည် အရှင် ဥဒါယီ မထေရ်က သုက်သွေးတွေ ပေကျံနေသော သင်းပိုင် ကို အဖွပ်အလျှော်ခိုင်းရာ ထိုဘိက္ခုနီမသည် သင်းပိုင်၌ ပေ ကျံနေသော သုက်သွေး အချို့ကို မိမိ သားအိမ်တွင်းသို့

ထည့်၍ သုက်သွေး အချို့ကို ပါးစပ်ဖြင့် စုတ်ယူကာ မျိုချသဖြင့် ပဋိသန္ဓေ တည်နေသည်။ မဟာ ရာဇဝင်ကြီး၌ ဘေဒါရီ မင်းသမီး ပဋိသန္ဓေတည်နေရာ၌ သမင်မတကောင်သည် ခေပဒူတ ရသေ့ကြီး၏ သုက်နှင့်ရောနေသော ကျင်ငယ်ကို သောက်သဖြင့် ပဋိသန္ဓေ တည်နေသည်။ အလမ္ဗုသဇာတ် ဣသိသိင်္ဂရသေ့ ပဋိသန္ဓေ တည်နေရာ၌လည်း သုက်သွေးနှင့်ရောသော ကျင်ငယ်ကို အမိ သမင်မ သောက်သောကြောင့်ပဋိသန္ဓေတည်နေသည်။ ထိုပြင် ဗျိုင်းအောက်မျိုး၌ အဖိုမရှိ၊ ဗျိုင်းမတို့သည် မိုးချုန်းသံကြောင့် ပဋိသန္ဓေ တည်နေကြသည်။ ကြက်မတို့သည်လည်းလေအတွေ့ကြောင့် ပဋိသန္ဓေ တည်နေ ကြသည်။ အကြောင်းကား ချက်ကို လက်ဖြင့် သုံးသပ်ခြင်း၊ ဝမ်းပိုက်ပေါ် သို့ ကင်းလျှောက်သွားခြင်း၊ သုက်သွေးကို သောက်မျိုခြင်း၊ သားအိမ်တွင်းသို့ ထည့်ခြင်း၊ အဆင်းကို မြင်ရခြင်း၊ အသံကိုကြားရခြင်း၊ အနံ့ကို နမ်းရှူရခြင်း၊ မိုးချုန်းသံကို ကြားရခြင်း၊ လေအတွေ့ကို တွေ့ခြင်းတို့ကား မိဖ နှစ်ဦးတို့ ပေါင်းဆုံခြင်း သဘောဖြစ်၍ အင်္ဂါသုံးပါး ညီညွတ်သောကြောင့် ဖြစ်သည်။

ထိုပြင် လူဇာတ်ပင် ဖြစ်သော်လည်း လူမိန်းမ ဝမ်း၌ ပဋိသန္ဓေ မနေပဲ နတ်ဘီလူးမ တိရစ္ဆာန်မ စသည်တို့၌ ပဋိသန္ဓေ တည်နေကြသည်။ သာဓက ကား ပဒကုသလ ဇာတ်၌ ပဒကုသလ သတို့သားသည် အဖပုဏ္ဏားဖြစ်၍ အမိ အဿမုခီ ဘီလူးမ ဝမ်း၌ ပဋိသန္ဓေ တည်နေသည်။ ကောဏ္ဍပုတ္တတိဿ ရဟန္တာမထေရ်နှင့် သုမိတ္တာ ရဟန္တာမထေရ်ညီနောင်နှစ်ပါးသည် အဖ မုဆိုးဖြစ်၍ အမိ ကောဏ္ဍီမည်သော ကိန္နရာမဝမ်း၌ ပဋိသန္ဓေတည်နေကြသည်။ မဟာဝင်ဝတ္ထု၌ သီဟိုဠ်ကျွန်းတွင် ဇီဝဟတ္ထမင်းသားနှင့်ဒီပေလ္လာမင်းသမီးတို့သည် အဖ ဝိဇယမင်းဖြစ်၍ အမိ ကုဝဏ္ဏမည်သော နတ်ဘီလူးမဝမ်း၌ ပဋိသန္ဓေ တည်နေကြသည်။ ထိုပြင် သီဟဗာဟုမင်းနှင့် နှမတော် သီဟသီဝလိ တို့သည်လည်း အဖ ခြင်္သေ့ဖြစ်လျက် တိရစ္ဆာန် ခြင်္သေ့အဖြစ် ပဋိသန္ဓေ မနေကြပဲ အမိ ကေသရီ မင်းသမီးဝမ်း၌ လူအဖြစ် ပဋိသန္ဓေ တည်နေကြသည်။

ဂဗ္ဘသေယျက ပဋိသန္ဓေ တည်နေသော သတ္တဝါတို့ဘဝ၏အစကား ကလလ ရေကြည်ဖြစ်၏။ ယင်းကလလ ရေကြည်သည် သုက်သွေးမဟုတ်။ စင်စစ်ကား အတိတ်ဘဝက ပြုလုပ်ဆည်းပူးခဲ့သော ကံကြောင့် ပဋိသန္ဓေစိတ်နှင့် တပြိုင်နက် အတူတကွ ဖြစ်ပေါ် လာသော ရုပ်တရားပင် ဖြစ်သည်။

ယင်း ရုပ်တရားဖြစ်သော ကလလ ရေကြည်၏ အကြီးအငယ် ပမာဏကား၊ ခုဒ္ဒက နိကာယ်ဆောင် ဆရာတို့အလိုအားဖြင့် ဇာတိဥဏ္ဏာ မည်သော သားကောင်၏ အမွေးတပင်ကို ဆိတ်ယ်ချ၍ ယင်းအမွေးဖျားတွင် ကပ်ပါလာသော ဆီပမာဏ ရှိ၏ဟုဆိုသည်။ တနည်း သံယုတ္တနိကာယ်ဆောင် ဆရာတို့အလိုအားဖြင့် ဇာတိဥဏ္ဏာ မည်သော သားကောင်၏ အမွေး သုံးပင်ကို ကျစ်ကာ ဆိတ်ယ်ချ၍ ယင်း အမွေးဖျားတွင် ကပ်ပါလာသော ဆီပမာဏရှိ၏ဟုဆိုသည်။ ဇာတိဥဏ္ဏာမည်သော သားမွေးကိုလည်း အချို့က ယနေ့ ဖွားမြင်သော ဆိတ်၏အမွေးဟု ဆိုသည်။ အချို့က ဟိမဝန္တာတော၌ရှိသော ဆိတ်၏ အမွေးဟု ဆိုသည်။ အချို့က ဆိတ်မ၏ဝမ်းကို ခွဲ၍ယူသော ဆိတ်ကလေး၏ အမွေးဟု ဆိုသည်။ မည်သို့ပင် အဖြီး အငယ် ပမာဏကို ဆိုစေကာမူ ကလလ ရေကြည်ကား ကာယဒသကကလာပ်၊ဘာဝဒသကကလာပ်၊ ဝတ္ထုဒသက ကလာပ် ဟူ၍ ကလာပ် အားဖြင့် သုံးစည်း၊ ရုပ်တုပေါင်း၍ ရေတွက်လျှင် ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယော၊ ဝဏ္ဏ၊ ဂန္ဓ၊ ရသ၊ ဩဇာ၊ ဇီဝိတ၊ ကာယပသာဒ၊ ဘာဝ၊ ဟဒယဝတ္ထုဟူ၍ ရုပ် ၁၂ ခု၊ ကလာပ်ပြား ရေတွက်လျှင် ကလာပ်တစည်း၌ ရုပ် ၁၀ ခု ရှိသောကြောင့် ယင်း ရုပ် ၃၀ တို့ ပေါင်းစုနေသော အစိုင် အခဲ ပမာဏသာ ဖြစ်လေသည်။

ပဋိသန္ဓေ တည်နေပုံကား ကလလရေကြည် တသတ္တာဟ၊ အမြှုပ် တသတ္တာဟ၊ သားတစ် တသတ္တာဟ၊ ညီဝန်းသောအခဲ တသတ္တာဟ၊ ခြေနှစ်ဖက် လက်နှစ်ဖက် ဦးခေါင်း ခက်မငါးဖြာ တသတ္တာဟ၊ (ခက်မငါးဖြာ ဆိုသော်လည်း ခြေချောင်း၊ လက်ချောင်း၊ မျက်စိ၊ နား၊ နှာခေါင်းစသည်တို့ အပြည့်အစုံ ဖြစ်သည် မဟုတ်။ ခက်မငါးဖြာ ဖြစ်ပေါ် ရန် ရှေ့ပြေးအဖု ငါးခုမျှသာ ဖြစ်သေးသည်။) ရင့်ကျက် တသတ္တာဟ၊ ဤသို့ ခြောက်သတ္တာဟ အစဉ်အတိုင်းဖြစ်သည်။ နောက် မျက်စိ တသတ္တာဟ၊ နား တသတ္တာဟ၊ နှာခေါင်း တသတ္တာဟ၊လျှာတသတ္တာဟ၊ ဤ လေးသတ္တာဟလည်း အစဉ်အတိုင်းဖြစ်သည်။ဤသို့လျှင် ဆယ်သတ္တာဟမြောက် နှစ်လနှင့် ၁၀ ရက်ရောက်လျှင် ပဋိသန္ဓေတည်နေသောသတ္တဝါသည် ကိုယ်အင်္ဂါပြည့်စုံသဖြင့် အကောင်အထည် ထင်ရှားလာသည်။ နောက် နှစ်လနှင့် ၁၁ ရက်မှစ၍ ၄၂ သတ္တာဟမြောက် ကိုးလနှင့် ၂၄ ရက်အတွင်း ဆံပင်၊ မွေးညှင်း၊ ခြေသည်း လက်သည်း စသည်တို့ကား အထိုက်အလျောက် ဖြစ်လာကြသည်။ (အဋ္ဌကထာနည်း)

တနည်း ကလလ ရေကြည် နှစ်သတ္တာဟ၊ အမြှုပ် နှစ်သတ္တာဟ၊ သားတစ် နှစ်သတ္တာဟ၊ ညီဝန်းသောအခဲ နှစ်သတ္တာဟ၊ ခက်မငါးဖြာ နှစ်သတ္တာဟ၊ အစဉ်အတိုင်းဖြစ်ကြသည်။ နောက် မျက်စိ တသတ္တာဟ၊ နား တသတ္တာဟ၊ နှာခေါင်း တသတ္တာဟ၊ လျှာ တသတ္တာဟ၊ အစဉ်အတိုင်း ဖြစ်ကြသည်။ ဤသို့လျှင် ၁၄ သတ္တာဟမြောက် သုံးလနှင့် ရှစ်ရက်ရောက်လျှင် ပဋိသန္ဓေ တည်နေသော သတ္တဝါသည် ကိုယ်အင်္ဂါ ပြည့်စုံသဖြင့် အကောင် အထည် ထင်ရှားလာ

သည်။ နောက် သုံးလနှင့် ကိုးရက်မှ စ၍ ၄၂ သတ္တာဟ မြောက် ကိုးလနှင့် ၂၄ ရက်နေ့ အတွင်း ဆံပင်၊ မွေးညှင်း၊ ခြေသည်း လက်သည်း စသည်တို့သည် အထိုက် အလျောက် ဖြစ်ကြသည်။ (မူလ ဋီကာနည်း)

အချိန်ကာလကား လူတို့သည် များသော အားဖြင့် ၄၂ သတ္တာဟ ပဋိသန္ဓေ တည်နေကြရသည်။ တိရစ္ဆာန်တို့တွင် ဆင်တို့သည် ၅၂ သတ္တာဟ၊မြင်းတို့သည် ၅၀ သတ္တာဟ၊ ခြင်္သေ့တို့သည် ၅၀ သတ္တာဟ၊ ကိန္နရာတို့သည် လူတို့ကဲ့သို့ ၄၂ သတ္တာဟ၊ နဂါးတို့လည်း ၄၂ သတ္တာဟ၊ ဂဠုန်တို့သည် ၅၀ သတ္တာဟ၊ ဘီလူးတို့လည်း ၅၀ သတ္တာဟ၊ ကျွဲ၊ နွား၊ စိုင်၊ ဆတ်၊ ချေ၊ သမင်၊ ပြောင်၊ ကြံ့၊ ဒရယ်၊ သစ်၊ ကျားတို့သည် ၄၀ သတ္တာဟ ပဋိသန္ဓေ တည်နေကြရသည်။

ထိုမှ ကြွင်းသော တိရစ္ဆာန်တို့ အနက် အတောင်မရှိ သားကောင် ဖွားမြင်သော တိရစ္ဆာန်တို့သည် ၁၇ သတ္တာဟ၊ ဥကဖွားမြင်သော တိရစ္ဆာန်တို့တွင် ခြေနှစ်ချောင်း ရှိသော တိရစ္ဆာန် တို့သည် ၁၅ သတ္တာဟ၊ အတောင် ရှိသော တိရစ္ဆာန်တို့တွင် ကြီးသောတိရစ္ဆာန်တို့သည် ၁၃ သတ္တာဟ၊ ငယ်သော တိရစ္ဆာန်တို့သည် ရှစ်သတ္တာဟ ပဋိသန္ဓေနေကြရ၏ဟု အာဒိကပ္ပ ကမ္ဘာဦးကျမ်း၌ အဆိုရှိသည်။

သက်ရှိ သတ္တဝါတို့ကို သန္ဓေလေးမျိုးနှင့် အကျဉ်းချုပ်ဝေဖန်လျှင် 'နတ်ဘုမ္မာ ပယ်ရှင်းလို့၊ ကြွင်းသမျှဒေဝါ။ ။ ငရဲအောက်ရွာနှင့် နိဇ္ဈာမာ ပြိတ္တာစု၊ သွင်းမှု မှန်စွာ။ ။ သန္ဓေမှာ ဥပပတ်သာ အမြဲ။ ။ကြွင်းပြိတ္တာ ဘုမ္မာနတ်ကယ်နှင့်၊ တိရစ္ဆာန် လူတရပ်ကယ်တို့၊ လေးပါးစုံ သန္ဓေကပ်သတဲ့၊ ထုံးမှတ်လို့စွဲ။' ဟု ပိဋကတ်တော်နှင့်အညီ ဒုတ်လှမ်းဆရာတော်ဘုရားကြီး ရေးသား ထားသော အချိုးအရ၊ ဘုမ္မစိုးနတ်မှ တပါးသော နတ်များ၊ နိဇ္ဈာမတဏှိက ပြိတ္တာများနှင့် ငရဲသူ ငရဲသားများမှာ ဥပပတ်ပဋိသန္ဓေ တမျိုးဖြင့်သာ နေကြသည်။ ဘုမ္မစိုးနတ်များ၊ လူများ၊ တိရစ္ဆာန်များနှင့် နိဇ္ဈာမ တဏှိက ပြိတ္တာမှ တပါးသော ပြိတ္တာများသည် ပဋိသန္ဓေ လေးမျိုးလုံးဖြင့် နေကြသည်။

ဖွားမြင်သော အခါ သံသေဒဇ၊ ဩပပါတိက တို့မှာ အမိဝမ်း၌ ပဋိသန္ဓေ မနေရသဖြင့် ဖွားမြင်နေဖွယ် မရှိ၊ အဏ္ဍဇများမှာ အမိဝမ်းမှ ဥအဖြစ်တကြိမ်၊ ဥမှ သားကောင်အဖြစ်တကြိမ် နှစ်ကြိမ် ဖွားမြင်ကြသည်။

ဇလာဗုဇသတ္တဝါ (cont.)

ဂဗ္ဘသေယျကတို့တွင် ပစ္ဆိမဘဝိက ဖြစ်သော ဘုရားလောင်းတို့မှာ ၁၀ လစေ့လျှင် ဖွားမြင်ကြသည်။ ဖွားမြင်သောအခါ၌လည်း မယ်တော်မတ်ရပ်၊ ခြေကစ၍ ဖွားမြင်မြဲဖြစ်ကြသည်။ အခြားသူတို့မှာ များသောအားဖြင့် ခေါင်းက စ၍ ဖွားမြင်ကြသည်။ တယောက် တလေ ခြေကစ၍ ဖွားမြင်သူလည်း ရှိသေး၏။ ယင်းကို ခြေကဖွားဟု လူထုံးအနေထားကြသည်။အကြောလွှဲနေသူ၊ အဆစ်လွှဲနေသူ၊အနာရောဂါရှိသူတို့ကို ခြေကဖွား နှိပ်နယ်ပေးလျှင် ပျောက်ကင်းချမ်းသာသည်ဟု အယူရှိကြသည်။

ပစ္ဆိမ ဘဝိက ဘုရားလောင်းမှ တပါးသော သူတို့မှာကား အချို့ ခုနစ်လ၊ အချို့ ရှစ်လ၊ အချို့ ကိုးလ၊ အချို့ ၁၀ လ၊ အချို့ ၁၁ လ စသည်ဖြင့် ဖွားမြင်ကြသည်။ ခုနစ်လဖြင့် ဖွားမြင်သော သူငယ်မှာ အမိ၏ သားအိမ် လမ်းကျဉ်းသော်လည်း ကိုယ်သဏ္ဌာန်သေးငယ်၍ အလွယ်နှင့် ဖွားမြင်နိုင်သောကြောင့် အသက်ချမ်းသာတတ်သည်။ ရှစ်လဖြင့် ဖွားမြင်သော သူငယ်မှာ သားအိမ် လမ်းကလည်း ကျဉ်း၊ ကိုယ်သဏ္ဌာန်ကလည်း ကြီးထွားနေသဖြင့် ခက်ခက်ခဲခဲ ဖွားမြင်ရသောကြောင့် အသက်မချမ်းသာတတ်။ ကိုးလ ၁၀ လဖြင့် ဖွားမြင်သော သူငယ်တို့မှာ ဖွားရိုး ဖွားစဉ် ဖြစ်သောကြောင့် အသက်ချမ်းသာကြသည်။ ဦးကြီးဖေ

**သန်လျက်။** ။မင်းမြောက်ဘန်ဆာငါးပါး — ရှု။

**သန်းထွန်း၊ သခင်** (၁၉၁၁ – ၁၉၆၈)။ ။သခင်သန်းထွန်းကို ခရစ်နှစ် ၁၉၁၁ ခုတွင် တောင်ငူခရိုင် ကညွတ်ကွင်းမြို့၌ မွေးဖွားသည်။ အဖမှာ ဦးဘိုးမောင်ဖြစ်၏။

သခင်သန်းထွန်းသည် ပျဉ်းမနားမြို့ အင်္ဂလိပ် မြန်မာ အထက်တန်းကျောင်းမှ ဆယ်တန်း (တက္ကသိုလ်ဝင်တန်း) အောင်မြင်ပြီးနောက် ရန်ကုန်မြို့၊ ဆရာဖြစ်သင်ကောလိပ်တွင် ပညာဆက်လက် သင်ကြားသည်။ ဆရာအတတ်သင်ကြားတတ်မြောက်ပြီးသောအခါ ရန်ကုန်မြို့ ကန်တော်ကလေးရပ်ရှိ ဘားမားမှတ်ဆလင် အထက်တန်းကျောင်းတွင် ကျောင်းဆရာအဖြစ် အမှုထမ်းခဲ့လေသည်။

ဗြိတိသျှခေတ် မြန်မာနိုင်ငံ လွတ်လပ်ရေး ကြိုးပမ်းမှုကာလတွင် သခင်သန်းထွန်းသည် တို့ဗမာအစည်းအရုံးသို့ ဝင်ရောက်ခဲ့သည်။ ထိုနောက် ၁၉၃၇ ခုနှစ်တွင် နဂါးနီစာအုပ်အသင်းကို စည်းရုံး တည်ထောင်ခဲ့၏။ တို့ဗမာအစည်းအရုံးတွင်လည်း လယ်ယာ စိုက်ပျိုးရေး ဆိုင်ရာတာဝန်ခံအမှုဆောင်အဖြစ်ဝင်၊ အတွင်းရေးမှူးအဖြစ်ဝင်တာဝန်ယူကာ ဆက်လက်ပါဝင်လှုပ်ရှားခဲ့ပေသည်။ ၁၉၄၀ ပြည့်နှစ်တွင် တို့ဗမာအစည်းအရုံး၏ ကိုယ်စားလှယ်အဖြစ် သခင်အောင်ဆန်းတို့နှင့်အတူ အိန္ဒိယကွန်ဂရက်ပါတီညီလာခံသို့ တက်ရောက်ခဲ့၏။

ထိုအချိန်တွင် မြန်မာပြည်သို့ ရောက်ရှိလာသော မတ်ဝါဒစာအုပ်များကို ဖတ်ရှုကာ သခင်သန်းထွန်းသည် ကွန်မြူနစ်ဝါဒကို စိတ်ဝင်စား ခဲ့ပေသည်။ ထိုနောက် အချို့သော လူငယ်များနှင့်အတူ ဗမာပြည် ကွန်မြူနစ်ပါတီကို ဖွဲ့စည်းတည်ထောင်ခဲ့၏။



သခင်သန်းထွန်း

၁၉၄၀ ပြည့်နှစ်မှ ၁၉၄၂ ခုနှစ် အတွင်းတွင် သခင်သန်းထွန်းသည် ဗြိတိသျှ ဆန့်ကျင်ရေး လှုပ်ရှားမှုများကြောင့် ထောင်ကျခဲ့သေးသည်။ ၁၉၄၂–၄၄ ခုနှစ်၊ ဂျပန်ခေတ်တွင် သခင်သန်းထွန်းသည် မြန်မာနိုင်ငံ အုပ်ချုပ်ရေးအဖွဲ့တွင် မြေနှင့် လယ်ယာစိုက်ပျိုးရေး တာဝန်ခံအဖြစ်၎င်း၊ မြန်မာ့လွတ်လပ်ရေး ပြင်ဆင်မှု ကော်မီတီတွင် အဖွဲ့ဝင်အဖြစ်၎င်း၊ ၁၉၄၃ ခုနှစ်၊ ဩဂုတ်လ ၁ ရက်နေ့မှစ၍ မြန်မာနိုင်ငံအစိုးရ အဖွဲ့တွင် မြေနှင့် လယ်ယာ စိုက်ပျိုးရေးဌာန ဝန်ကြီး အဖြစ်၎င်း တာဝန်ယူဆောင်ရွက်ခဲ့သည်။ ထိုနောက် ဖ–တ–ပ–လ အဖွဲ့ကြီး (နောင် ဖ–ဆ–ပ–လ အဖွဲ့)ကို စတင်ဖွဲ့စည်း ဦးစီးအဖွဲ့ဝင်အဖြစ် ပါဝင်ကာ ဖက်ဆစ် တော်လှန်ရေး လုပ်ငန်းများကို ဆောင်ရွက်ခဲ့၏။

၁၉၄၅ ခုနှစ်၊ ဇူလိုင်လတွင် သခင်သန်းထွန်းသည် ဗမာပြည် ကွန်မြူနစ်ပါတီ၏ ဥက္ကဋ္ဌဖြစ်လာ၏။ ၁၉၄၆ ခုနှစ်၊ မေလတွင်လည်း ဖ–ဆ–ပ–လ အဖွဲ့၏ အထွေထွေ အတွင်းရေးမှူးအဖြစ် ရွေးချယ် တင်မြှောက်ခြင်း ခံခဲ့ရလေသည်။ (၁၉၄၆ ခုနှစ်၊ အောက်တိုဘာလ ၁၀ ရက်နေ့တွင် သခင်သန်းထွန်းတို့ ခေါင်းဆောင်သည့် ကွန်မြူနစ်ပါတီသည် ဖ–ဆ–ပ–လ အဖွဲ့ချုပ်မှ ထုတ်ပယ်ခြင်း ခံရလေသည်။) ၁၉၄၈ ခုနှစ်၊ မတ်လတွင် သခင်သန်းထွန်းသည် အစိုးရကို တော်လှန်ပုန်ကန်ကာ ဗမာပြည် ကွန်မြူနစ်ပါတီကို ဦးဆောင်ပြီးလျှင် တောခိုခဲ့၏။ ထိုနောက် မြေအောက် ဗမာပြည် ကွန်မြူနစ် ပါတီ၏ ဥက္ကဋ္ဌအဖြစ် နှစ်ပေါင်းများစွာ ဆောင်ရွက် ခဲ့သည်။ ၁၉၆၈ ခုနှစ်၊ စက်တင်ဘာလ ၂၄ ရက်နေ့တွင် မြေအောက် ကွန်မြူနစ်ပါတီမှ တပ်သားတဦးဖြစ်သူ မြကြီးဆိုသူက လုပ်ကြံ သတ်ဖြတ်သဖြင့် သခင်သန်းထွန်းသည် တောင်ငူခရိုင် အုတ်တွင်းမြို့နယ် အနောက်ခြမ်း၊ မြရာပင်ကျေး၏ အရှေ့ဖက်စောင်း၊ ကျောက်ချောင်းကမ်းပါးရှိ တောင်ကျောကလေးတွင် ကျဆုံးခဲ့၏။ သခင်သန်းထွန်း ကွယ်လွန် သောအခါ ဇနီး ဒေါ်ခင်ကြီးနှင့် သား နှစ်ယောက်၊ သမီးတယောက် ကျန်ခဲ့ပေသည်။

သခင်သန်းထွန်းသည် မြန်မာလိုရော အင်္ဂလိပ်လိုပါ စာရေးကောင်းသူ ဖြစ်သည်။ သုပဏ္ဏက ကလောင်အမည်ဖြင့်လည်း ဆောင်းပါးများ၊ ဘာသာပြန်များ ရေးသားခဲ့သည်။ ၁၉၃၉ ခုနှစ်က အရေးတော်ပုံအမည်ရှိ ကွန်မြူနစ်ဂျာနယ်ကို လျှို့ဝှက် ထုတ်ဝေခဲ့ဘူး၏။

**သိန္ဓုနယ်။** ။ပါကစ္စတန်နိုင်ငံ၊ အနောက် ပါကစ္စတန်ပြည်နယ်တွင် တည်ရှိ၍ အိန္ဒုမြစ်ဝှမ်းအောက်ပိုင်းမှ နယ်ကြီးဖြစ်သည်။ ယခင်က ဘုံဘိုင်ပြည်နယ်၏ လက်အောက်ခံဖြစ်ခဲ့ဘူးသော နယ်ပင်ဖြစ်သည်။ ၁၉၃၆ ခုနှစ်မှ စ၍ သိန္ဓုနယ်သည် သီးခြားဘုရင်ခံ အုပ်ချုပ်သော ပြည်နယ်တနယ်ဖြစ်လာသည်။ ၁၉၄၇ ခုနှစ် ဩဂုတ်လ ၁၅ ရက်နေ့တွင် အိန္ဒိယနှင့် ပါကစ္စတန်ဟူ၍ ဓနသဟာယ နိုင်ငံ နှစ်ခု ကွဲသောအခါ သိန္ဓုနယ်သည် ပါကစ္စတန် နိုင်ငံ အပါအဝင် နယ်တနယ်ဖြစ်လာလေသည်။

သိန္ဓုနယ်မြေသည် အိန္ဒုမြစ်ဝကျွန်းပေါ် အတွင်း များသောအားဖြင့် ကျရောက်လျက် နုံးတင်မြေများဖြစ်၍ မြေဩဇာထက်သန်သည်။ အနောက်ဖက်ပိုင်းသည် တောင်ကုန်းထူထပ်၏။ အရှေ့ဖက်အစွန်တွင်ကား သာ သဲကန္တာရ၏ အနောက်ဖက်စွန်း တည်ရှိသည်။

စပါးသည် ထိုနယ်၏ အဓိကသီးနှံဖြစ်၍ အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်ကြသည်။ နယ်လူဦးရေ၏ ၄၀ ရာနှုန်းသည် လယ်ယာလုပ်ကိုင်စားသောက်သူများ ဖြစ်၏။ စပါးမှတပါး တောင်ပိုင်း၌ နှမ်းကိုလည်း စိုက်ပျိုးကြသည်။ အလယ်ပိုင်း၌ ဂျုံများစိုက်ပျိုး၍ အောက်ပိုင်းတွင် ဝါဂွမ်းများစိုက်ပျိုး၏။ လယ်ယာစိုက်ပျိုးရေး အပြင် အခြားလက်မှုလုပ်ငန်းများမှာ အိုးခွက်လုပ်ငန်း၊အုတ်ကြွပ်လုပ်ငန်း၊ ယွန်းထည်၊ပိုးထည်နှင့် ကော်ဇောလုပ်ငန်း စသည်တို့ဖြစ်၏။ စက်မှုကရိယာများထွန်းကားလာသောအခါလက်မှုလုပ်ငန်းများ တိမ်ကောသလောက် ဖြစ်သွား၏။ ဝါဂွမ်း၊ ရိုင်းဂျုံ၊ ဂျုံမှုန့်၊ စပါး၊ သားရေစိမ်းများကို တင်ပို့ရောင်းချသည်။

သိန္နုနယ်သည် အိန္ဒိယနိုင်ငံ အနောက်မြောက်ဒေသများနှင့် မီးရထားလမ်းအားဖြင့် ဆက်သွယ်ထားလေသည်။ မြို့ကြီးများမှာ ဟိုက်ဒရဗတ်၊ နဝဗ်ရှားနှင့် မီရပူခတ်မြို့ စသည်တို့ဖြစ်၏။

သိန္နုနယ်၏ အကျယ်အဝန်းမှာ ၅၀,၃၉၇ စတုရန်းမိုင်ရှိ၍၊ ၁၉၅၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၄,၆၀၇,၀၀၀ ရှိသည်။

**သိန်း၊ မော်ပီဆရာ** (မြန်မာ ၁၂၂၃–၁၃၀၃)။ ။ မော်ပီ ဆရာသိန်းသည် မှော်ဘီခရိုင်၊ (ယခင်အင်းစိန်ခရိုင်) မှော်ဘီမြို့နယ် မင်းရွာ၌ ၁၂၂၃ ခုနှစ် နှောင်းတန်ခူးလဆန်း ၂ ရက် တနင်းလာနေ့တွင် အဖ ဦးရွှေကြူနှင့် အမိ ဒေါ်ငွေတို့မှ ဖွားမြင်ခဲ့လေသည်။ ငယ်မည်မှာ မောင်ဘိုးသိန်း ဖြစ်၏။ သားချင်း လေးယောက်ရှိ၍ မောင်ဘိုးသိန်းမှာ ဒုတိယသားဖြစ်သည်။

အမိအဖများမှာ ဆင်းရဲနွမ်းပါးလှသဖြင့် အဖဖြစ်သူက တောင်သူ လယ်လုပ်ဖြင့် ဇနီး သားသမီး တို့ကို ပြုစုစောင့်ရှောက်ရသည်။ နောင်သောအခါ မော်ပီဆရာသိန်းကြီးဟု စာပေလောကတွင် ထင်ရှား ကျော်စော လာမည့် မောင်ဘိုးသိန်းကလေးသည် အစ်ကိုဖြစ်သူ မောင်ဘိုးငြိမ်းနှင့်အတူ ငယ်စဉ်အခါက မင်းရွာ ကန်ကုန်းကျောင်း ဆရာတော် ဦးဝဏ္ဏထံတွင် တောသူ တောင်သား ဘာဝ မင်္ဂလသုတ်၊ ရတနာရွှေချိုင့်၊ နမက္ကာရ၊ အတွင်းအောင်ခြင်း၊ အပြင်အောင်ခြင်း၊ ပရိတ်ကြီး စသည် တို့ကို သင်ကြားခဲ့ရသည်။ ဤသို့ ပညာရှာယင်း ဆင်းရဲ နွမ်းပါးလှသော ညီအစ်ကို နှစ်ယောက်သည် နွားကျောင်း ထမင်းပို့ အလုပ်ကို လှငှားခ စပါးပေးဖြင့် လုပ်ကိုင်ခဲ့ရ ရှာသည်။ သို့သော် ထိုစဉ်ကပင် မောင်ဘိုးသိန်းကလေးသည် ဝမ်းရေးအတွက် နွားကျောင်းရချိန်၌ပင် ရသမျှသော စာအုပ်၊ စာတမ်းများကို လေ့လာ ဖတ်မှတ်ခဲ့လေသည်။

ထိုကမှ တစတစ ဆရာကောင်း၊ သမားကောင်းများထံ ဆည်းကပ် မှတ်သား ၍ရင်း၊ အားလပ်ခွင့် ရတိုင်း ဒေသန္တရ ဗဟုသုတ ရှာမှီးရေးအတွက် အနယ်နယ် အရပ်ရပ်သို့ မပြတ်မလပ် သွားရောက် လှည့်လည်၍ရင်း ပညာဗဟုသုတကို ရှာဖွေ စုဆောင်းခဲ့လေသည်။

အသက် ၁၉ နှစ်အရွယ်တွင် မောင်ဘိုးသိန်းသည် ပဲခူး၊ ဟံသာဝတီ ကြေးတိုင်ရုံးတွင် စာရင်းရေး စာရင်းစစ်အဖြစ်နှင့် အမှုထမ်းခဲ့သည်။ ၂၃ နှစ် အရွယ်တွင် မှော်ဘီမြို့အုပ်ရုံးတွင် မြို့စာရေးအဖြစ် အမှုထမ်းပြန်သည်။ အသက် ၃၀ ခန့်အရွယ် ဘောလယ်ကျွန်းဖက်သို့ ပညာရှာ ထွက်ရာတွင် ဘောလယ်ကျွန်း၊ ကျွန်းဦး တိုက်သူကြီး ဦးသိုင်း၊ ဒေါ်လင်းတို့၏ သမီး ဒေါ်ငွေနှစ်နှင့် အကြောင်းပါခဲ့သည်။


ပညာဗဟုသုတအထူးပြည့်စုံသော မြန်မာပညာရှိ မော်ပီဆရာသိန်း

သားသမီး လေးယောက် ထွန်းကားခဲ့၏။ တဖန် အသက် ၃၄ နှစ်တွင် မှော်ဘီမြို့အုပ်ရုံးမှ ပြောင်းပြီးလျှင် ကွမ်းခြံကုန်း မြို့အုပ်ရုံးတွင် မြို့စာရေးအဖြစ် အမှုထမ်းခဲ့သေးသည်။

ထိုသို့ အစိုးရ အမှုကို ထမ်းဆောင် နေစဉ် အတွင်း လောကီ၊ လောကုတ္တရာ အကျိုးစီးပွားနှင့် စပ်လျဉ်းသော ကျမ်းဂန်တို့ကို သင်အံမှတ်နာ တိုင်းထွာဆင်ခြင်ခြင်း၊ ခဲရာခဲဆစ်များကို ဝိုးဝါးဒွိဟ မရှိရလေအောင် ပညာရှိ ရဟန်းရှင်လူတို့သို့ ချဉ်းကပ်ခါ ဆွေးနွေးမေးမြန်းခြင်းတို့ကို ပြုလုပ်ခဲ့လေသည်။ အထူးသဖြင့် ငယ်ဆရာတဦး ဖြစ်သော အင်းစိန် ရွာမကျောင်းဆရာတော် ဦးနာရဒကား ပညာဗဟုသုတအတွက် ဦးဘိုးသိန်း အထူး ဆည်းကပ် အားထားသော ပုဂ္ဂိုလ် ဖြစ်၏။

ဦးဘိုးသိန်းသည် အထုံဝါသနာ အလျောက် ပညာရှိ ရဟန်းရှင်လူ အများထံမှ မိမိ မှတ်သား ဆည်းပူးခဲ့ရသမျှ တို့ကို ဖြန့်ဖြူးဝေငှလိုသဖြင့် ကွမ်းခြံကုန်းမြို့၊ မြို့အုပ်ရုံးတွင် လုပ်ကိုင် ထမ်းရွက်နေစဉ် ပေါရာဏဒီပနီကျမ်း ပဌမတွဲကို ၁၂၅၇ ခုနှစ်တွင် ရေးသား ပြုစုပြီးစီးသည်။ ထိုနှစ်အတွင်း အစိုးရ လခစား အလုပ်မှ နုတ်ထွက်လိုက်၍ သာသနာလင်္ကာရစာတမ်းအလို မိလိန္ဒမင်းကြီး စံနေသော သာဂလပြည်သည် ဇင်းမယ်မြို့ဟု ညွှန်ပြသည်ကို အမှန်အကန် သိလိုရင်း ဆန္ဒရှိသဖြင့် သက္ကရာဇ် ၁၂၅၈ ခုနှစ် အယုဒ္ဓယ တိုင်းပြည်၊ ရဟိုင်းမြို့နှင့် လကွန်းမြို့၊ လပုံးမြို့၊ ဇင်းမယ်မြို့၊ မုံးနန်းမြို့၊ မုံးတစ်မြို့ ဟူသော ယွန်းငါးမြို့နယ်သို့ ဒေသန္တရ ဗဟု

သုတ အဖြစ်ဖြင့် သွားရောက် စုံစမ်းလှည့်ပတ် နေခဲ့သည်။ ထိုသို့ ဇင်းမယ်မြို့ဖက်သို့ ထွက်ခွာမသွားသေးမီ ဇနီး ဒေါ်ငွေနှစ်နှင့် မကြာခဏ မသင့်မတင့် ဖြစ်ခဲ့သည်မှအစ ကွာရှင်းခဲ့လေသည်။

ရန်ကုန်မြို့ ဟံသာဝတီ ပုံနှိပ်တိုက်တွင် စာရေးအဖြစ် သက္ကရာဇ် ၁၂၅၉ ခုနှစ်၌ လုပ်ကိုင် ဆောင်ရွက်ခဲ့၍ မြန်မာနိုင်ငံ ကမ္မည်းကျောက်စာရုံးတွင် ကမ္မည်းကျောက်စာ အဖတ် အပြန် အရေးအသားတို့ကို ခေတ္တခဏမျှ ဝင်ရောက်သင်ကြားခဲ့၏။ ထိုနောက် ပျဉ်းမနားတွင် လွှစက်သဌေးကိုယ်စားလှယ်အဖြစ် လုပ်ကိုင်ခဲ့ပြီးလျှင် ဇာတ်ရုပ်စုံ သဘင်ပညာသည်တို့အတွက် ဇာတ်လမ်းဇာတ်ထုပ် စသော ကဗျာ သီချင်းများကို စာရေး စာဆို ဆရာအဖြစ်နှင့် အစမ်း လုပ်ကိုင်ခဲ့သေးသည်။

၁၂၆၃ ခုနှစ်တွင် ပညာဗဟုသုတ ထပ်မံ ရှာမှီးရေးအတွက် အထက်အောက် မြန်မာနိုင်ငံတလွှား အနှံ့အပြား သွားရောက်၍ ရှေး စာဟောင်းစာတမ်းများ၊ ပျို့လင်္ကာ ရာဇဝင် သမိုင်းများ၊ ကျောက်စာ မော်ကွန်း အမှတ်အသားများနှင့် ရှေးပညာရှိတို့၏ အတ္ထုပ္ပတ္တိများကို လှည့်လည်ရှာဖွေ စုဆောင်း မှတ်သားခဲ့၏။ ၁၂၆၄ ခုနှစ်တွင် မဟာဗောဓိ သတင်းစာကို စတင်ထုတ်ဝေသည့်အခါ စာရေးအဖြစ် လုပ်ကိုင်ခဲ့သည်။ ၁၂၆၅ ခုနှစ်မှ ၁၂၆၇ ခုနှစ်အထိ ရောဝတီ စာပုံနှိပ်တိုက်တွင် တိုက်အုပ်အဖြစ် လုပ်ကိုင်ခဲ့၍ ၁၂၆၈ ခုနှစ်တွင် အင်္ဂလိပ် မြန်မာ ပုံနှိပ်တိုက်သို့ ရွှေ့ပြောင်းလုပ်ကိုင်ခဲ့ပြန်သည်။

ဦးဘိုးသိန်းသည် အိန္ဒိယ ပဋိညာဉ်ခံ ဝန်ထမ်း အရာရှိကြီးများ ဖြစ်ကြသော မစ္စတာ စဘူးဝပ်နှင့် မစ္စတာ လီဗီဆင်တို့ကို မြန်မာမှု အနုပညာတရပ် ဖြစ်သော ပျို့ကဗျာ လင်္ကာ ရာဇဝင် စာဟောင်း စာတမ်းများကို သင်ကြားပို့ချပေးခဲ့ရသည်။ ထိုအပြင် မြန်မာနိုင်ငံ သုတေသနအသင်းတွင် အသင်းသို့ စာဟောင်း စာတမ်းများ ကူညီ မစသည့်ဖက်မှ အသင်းဝင်တဦးအဖြစ် ဆောက်ရွက်ရသေးသည်။ ဤသို့အားဖြင့် ပညာလိုလား အမျိုးသား အပေါင်းတို့အား ပညာဗဟုသုတ ဖြန့်ဖြူးယင်း မိမိကိုယ်တိုင်လည်း စုဆောင်းယင်းဖြင့် ၁၂၇၄ ခုနှစ်တွင် ပေါရာဏဒီပနီ ဒုတိယတွဲကို ပြုစုထုတ်ဝေခဲ့၏။

ဦးဘိုးသိန်းသည် အသက် ၅၀ အရွယ်ခန့်တွင် မော်ဘီမြို့မှ ဆိုင်းဆရာကြီး ဆရာချိန်၏ အစ်မ ဒေါ်စိုးကြွယ်နှင့် ထပ်မံ အိမ်ထောင်ပြုခဲ့ရာ သားနှစ်ယောက်နှင့် သမီးတယောက် ထွန်းကားခဲ့သည်။ သို့ရာတွင် ပဌမ အိမ်ထောင်နည်းတူ ဒုတိယ အိမ်ထောင်သည်လည်း မသာမယာ ဖြစ်ခဲ့ပြန်၍ နောက်ဆုံးတွင် ဇနီး သားသမီးများနှင့် ခွဲခွာကြရသည့် အခြေသို့ပင် ရောက်သွားခဲ့လေသည်။

ဤသို့သော စိတ်ဆင်းရဲမှုများ အကြားမှပင် ဆရာကြီးသည် မှတ်တမ်း မှတ်စု၊ ပညာဗဟုသုတများဖြင့် အထူး ပြည့်စုံသော ကျမ်းပေါင်းများစွာ ရေးသားပြုစုခဲ့၏။ ထိုကျမ်းတို့တွင် နတ်လမ်းညွှန်။ ပေါရာဏဒီပနီ၊ ပ၊ ဒု။ ဒွန်းစဏ္ဍားနှင့် မင်းသမီးညားပုံ ဝတ္ထု။ ပစပ်ရာဇဝင် ပ၊ ဒု။ ဗျိုင်းနားမင်္ဂလာစာတမ်း။ ရှေးဖြစ်စာတမ်း။ အရှူးလှယ်အိတ် ပ၊ ဒု။ ဟင်းလေးအိုး။ နှောင်းဖြစ် စာတမ်း။ ဂီတာလင်္ကာရ။ မြန်မာ ပညာရှိကြီးများ အကြောင်း။ မြန်မာဝန်ကြီးမှူးကြီးများ။ တောသူမ လင်ပျောက်ရှာပုံ။ တောသား မယားပျောက်ရှာပုံ စသည်တို့ ပါဝင်လေသည်။

ဦးဘိုးသိန်းသည် အသက် ၈၀ အရွယ် ၁၃၀၃ ခုနှစ် ပြာသို လပြည့်ကျော် ၁ ရက် (ခရစ် ၁၉၄၂ ခုနှစ် ဇန္နဝါရီလ ၁ ရက်) နေ့တွင် မော်ဘီမြို့၌ ကွယ်လွန်သည်။

**သိန္ဓောဆား။** ။ဆား — ရှု။

**သိန္ဓောမြင်း။** ။မြန်မာစာပေ ကျမ်းဂန်အချို့၌ သိန္ဓောမြင်းကို ဘုန်းရှင်သမ္ဘာရှင် မင်းကေရာဇ်များ၏ အသုံးအဆောင်တရပ် အနေဖြင့် ရံဖန်ရံခါ ဖော်ပြသည်ကို တွေ့ရသည်။ မည်သည့် မင်း၏ ဘုန်းတော်ကြောင့် သိန္ဓောမြင်း လက်ဝယ်သို့ ရောက်ရှိ၏ ဟူသော အသုံးအနှုန်းများကို ကျွန်ုပ်တို့ ဖတ်ဖူး၊ တွေ့ဖူး ကြရသည်။ ထိုမြင်းမျိုးတို့သည် တန်ခိုး ဣဒ္ဓိပါဒ်ရှိ၍ ကောင်းကင်၌ သွားလာကျက်စားသော မြင်းပျံမျိုး ဖြစ်သဖြင့် သိန္ဓောနတ်မြင်းပျံဟူ၍လည်း ခေါ်ဝေါ် သုံးနှုန်းကြသေးသည်။

အာဒိကပ္ပ ကမ္ဘာဦးကျမ်းအဆိုအရ ဟိမဝန္တာရှိ အနောတတ္တအိုင်၏ မြောက်မျက်နှာက သုဒဿနတောင်ကို ထွင်း၍ ထွက်သော အဿမုခ ပြွန်မြစ်ရေသည် မြောက်သမုဒ္ဒရာသို့ စီးရာ ထိုမြစ်ရေကို အမှီပြု၍ နေထိုင်ကြသော မြင်းပျံမျိုးငါးမျိုးအနက် သိန္ဓောမြင်းသည် တမျိုးဖြစ်သည်။ အခြား မြင်းပျံမျိုးတို့ကား ဝလာဟက (တိမ်တိုက်ပျံမျိုး)၊ အာကာသ ဘိန္န (ကောင်းကင်ခွဲမျိုး)၊ ဝလာဟကသိင် (ရောင်စုံပြိုးပြက်မျိုး)၊ သုဗဏ္ဏသာမ (ရွှေစင်တုန့်ရှိုင်းမျိုး) ဟူ၍တည်း။

ထိုမြင်းပျံငါးမျိုးတို့သည် တောင်ငါးလုံး၌ အသီးအသီး နေထိုင် ကျက်စားကြရာ သိန္ဓောမြင်းမျိုးတို့ နေထိုင်သော တောင်ကို သိန္ဓဝတောင်ဟု ခေါ်သည်။ ထို့ကြောင့်သိန္ဓောမြင်းတို့ကို သိန္ဓဝမြင်း ဟူ၍လည်း ခေါ်ကြသည်။ သိန္ဓဝတောင်သည် ကျွန်းဦးဖြစ်သော မြောက်သမုဒ္ဒရာနားတွင် ရှိသည်။ ထိုတောင်သည် အမြင့် အစောက် ယူဇနာ ၅၀ ရှိ၍ အဝန်းယူဇနာ ၁၅၀ ရှိသည်။ သိန္ဓောမြင်းတို့သည် သိန္ဓဝတောင်၏ လိုဏ်ဂူများ၌ နေထိုင်ကြသည်ဟု ဆိုလေသည်။

ထိုအာဒိကပ္ပကျမ်းက ထိုမြင်းတို့၏ အရောင်အဆင်းပုံပန်းသဏ္ဌာန်တို့ကို ဤသို့ စေ့စေ့စပ်စပ်ဖော်ပြပြန်လေသည်။

သိန္ဓောမြင်းတို့သည် သပြေသီးမှည့်ရောင်၊ မရန်းစေ့ရောင် အဆင်းရှိ၍ ခြင်းခြင်းနီလျက် ရွှဲရွှဲပြောင်သော ကိုယ်မွေးရှိသည်။ လည်ရင်းကြီး၍ လည်ဖျားသေးသည်။ နှာယောင်ဖြောင့်၍ မျက်လုံးမျက်ဆန်တို့သည် ဝရဇိန် ရွှဲလုံးတင်၍ တပ်ထားဘိသကဲ့သို့ တောက်ပကြည်လင်သည်။ နှုတ်ခမ်း၊ နှုတ်သီးတို့သည် စေ့စပ်၍ ရွှေတာအဖုံးကဲ့သို့ ရှိသည်။ ဦးစွန်း၊ အမြီးစွန်းတို့သည် ခြင်းခြင်းနီသော အရောင်ရှိသည်။အမြီးဆံသည် အရင်းမှ ကွေးကွေးညွတ်လျက် မရှုပ်မထွေး သေးသေးမျှင်မျှင်ရှိသည်။ ခွာလေးဖက်သည် ပိတုန်းရောင်ကဲ့သို့ မည်းနက်၍ တဖိတ်ဖိတ် တောက်ပနေသည်။ ယင်းတို့သည် ဖလားခွက်ကို မှောက်ထားဘိသကဲ့သို့ ဝန်းဝန်းစက်စက်ရှိသည်။ သိန္ဓောမြင်းတို့သည် ခရုသင်းမှုတ်သံနှင့် တူသော အသံမျိုးရှိလေရာ ယင်းသို့သော အသံကိုပြု၍ နားရွက် နှာယောင်တို့ကို မော့ထောင်လျက် အရှေ့အနောက် တောင် မြောက် ဝန်းကျင် ပြေးသောအခါ တောတောင်အလုံး ပြည့်မျှ ထင်ရသည်။

ထိုမြင်းပျံတို့သည် ရသဝလ္လိကတောင်ရှိ တိမ်ပင်တောသို့ သွား၍ တိမ်ရွက်၊ တိမ်ဖူး၊ တိမ်ပွင့်၊ တိမ်သီးတို့ကို စားသည်။ ထိုတိမ်ပင်သည် သန္တာအဆင်းကဲ့သို့ နီသော အရိုးအရွက် အပွင့်အသီး စသည်တို့ရှိ၍ အလွန်ချိုသော အရသာနှင့် ပြည့်စုံသည်။ အလွန်မွှေးပျံ့သော အနံ့လည်းရှိ၍ တန်ခိုးဣဒ္ဓိပါဒ်နှင့် ပြည့်စုံသော အကျိုးပေါင်း ၁၀၀၀ ကို ကျေးဇူးပြုနိုင်သည်။ ထိုတိမ်တော ရှိရာသို့ တန်ခိုးနည်းသော သတ္တဝါ တိရစ္ဆာန်တို့ မရောက်နိုင်ကုန် စသည်ဖြင့် သိန္ဓောမြင်းနှင့် စပ်လျဉ်း၍ အာဒိကပ္ပကျမ်း၌ ဆက်လက် ဖော်ပြထားလေသည်။

ရှင်မဟာသီလဝံသ၏ ရာဇဝင်ကျော်၌ ဖော်ပြထားပုံကား 'သိန္ဓဝ(သိန္ဓု)မြစ်နား၌လျှင် မြင်းကောင်းဟူသမျှ ဖြစ်၏။ ထိုသိန္ဓဝမြစ်နား၌ ဖြစ်သောကြောင့် မြင်းကောင်းတို့ကို သိန္ဓဝဟူသတည်း။' မြင်းကောင်းတို့သည် မင်းတို့၏ ခြေလက်အင်္ဂါတို့နှင့် တူသည်။ ရှစ်ပါးသော ကျေးဇူးအင်နှင့် ပြည့်စုံသော မြင်းတို့ကိုလျှင် မင်းတို့ စီးတန်သော မြင်းဟူ၏။ သိန္ဓောမြင်းတို့၌ ပြည့်စုံသော ကျေးဇူးအင်္ဂါ လက္ခဏာ ရှစ်ပါးကား –

(၁) အမိအဘနှစ်ပါးစုံလျှင် သိန္ဓဝအမျိုးမှန်၍ အမျိုးနှစ်ပါးတို့မြတ်သော ကျေးဇူးအင်လည်း တပါး၊

(၂) ပေးပေးသမျှ မြက်စိမ်း၊ မြက်သွေ့ဟူသမျှကို အလိုရှိစွာ စားတတ်သော အင်လည်းတပါး၊

(၃) အလေးအပေါ့တို့ကို စက်ဆုပ်တတ်လျက် အအိပ်အနေ ရှောင်ရှားနိုင်သော အင်လည်းတပါး၊

(၄) မြင်းဘော်တပါးတို့နှင့် သင့်တင်ကြလျက် နေပိုက်သော အင်လည်းတပါး၊

(၅) တစုံတခုသော ဆုံးမသော စဉ်းလဲ စဉ်းစားမှုရှိငြားသော်လည်း မသျှိမဝှက်၊ ဆုံးမ သာအောင် ထင်ရှားပြု၍ ဆုံးမခံသော အင်လည်းတပါး၊

(၆) မြင်းတပါးတို့ ရွက်ဆောင် သော်လည်းကောင်း၊ မရွက်ဆောင်သော်လည်းကောင်း ငါလျှင် မချွတ်မလွဲ ဆောင်ရွက်ပေအံ့ဟု နှလုံးရှိလျက် က-သ ရွှေ၊ စီးနင်းသရွှေကို ရွက်ဆောင်တတ်သော အင်လည်း တပါး၊

(၇) အပြေးအသွား ဖြောင့်တန်းသော အင်လည်း တပါး၊

(၈) ခွန်အားရှိသော အခလေ့ဖြင့် သေလောက်သော အခါတိုင်အောင် ခွန်အားမချ ပြေးနိုင်စွမ်းသော အင်လည်းတပါး ဟူ၍ ဖြစ်လေသည်။

ဤသို့သော အင်္ဂါရှစ်ပါးနှင့် ပြည့်စုံသဖြင့် မင်းတို့ စီးတန်သော မြင်းဟူ၏။ ဆင်ရတနာ မြင်းရတနာဟူသည် ကိုယ်လည်း တသိန်းတန်၊ ဆင်သော တန်ဆာလည်း တသိန်းတန် ဖြစ်သော်မှလျှင် ဆင်ရတနာ၊ မြင်းရတနာမည် ပေသတည်း။

**သိန္နီနယ်။** ။သိန္နီနယ်ကို ခရစ် ၁၈၈၈ ခုနှစ် အင်္ဂလိပ်တို့ ဝင်ရောက် သိမ်းပိုက်ပြီးနောက်မှ မြောက် သိန္နီနယ် (သိန္နီနယ်)နှင့် တောင် သိန္နီနယ်(မိုင်းရယ်နယ်)ဟု ခွဲခြား အုပ်ချုပ်ခဲ့သည်။ ရှေးအခါသမယက သိန္နီနယ်ကြီးသည် အစိတ်စိတ် ကွဲပြားခြင်း မရှိပဲ ရှမ်းပြည်နယ် တဝှန်းလုံးတွင် အကျယ်ပြန့်ဆုံး၊ အာဏာ အလွှမ်းမိုးဆုံးသော နယ်ကြီး ဖြစ်ခဲ့သည်။ သို့သော် မြန်မာဘုရင်များ ဝင်ရောက်တိုက်ခိုက်သိမ်းပိုက်ပြီးသည့်နောက် အုပ်ချုပ်ရေး ဝါဒအရ ရာထူးလုသည့် နယ်ရှင် စော်ဘွားတို့ကြောင့် သိန္နီနယ်ကြီးသည် ငါးနယ်အထိ အစိတ်စိတ် ကွဲပြားခဲ့လေသည်။ ထိုအတွင်း စော်ဘွားအချင်းချင်း စိတ်ဝမ်းကွဲကာ တဦးနှင့်တဦး တိုက်ခိုက်၍ ဆိုင်ရာ နယ်ပယ်များကို အုပ်ချုပ်ကြသည်။ နောက်ဆုံး ခရစ် ၁၈၈၈ ခုနှစ် အင်္ဂလိပ်တို့ ဝင်ရောက်လာမှ အထက်ပါအတိုင်း နှစ်နယ်ခွဲ၍ အုပ်ချုပ်ခဲ့ရာ ယခုတိုင်ပင် ဖြစ်သည်။ နှစ်နယ်ခွဲ၍ အုပ်ချုပ်စက ခွန်ဆိုင်တုံဟမ်းအား မြောက်သိန္နီနယ်အတွက် စော်ဘွားအဖြစ်၎င်း၊ ဆိုင်နော်ဖ၏သား နော်မိုင်းအား တောင် သိန္နီနယ် စော်ဘွားအဖြစ်၎င်း ခန့်အပ်ခဲ့လေသည်။ ၁၉၂၅ ခုနှစ်တွင် မြောက် သိန္နီနယ်ကို စဝ်ဟုံဖက စော်ဘွားအဖြစ် ဆောင်ရွက်ခဲ့လေသည်။

မြန်မာနိုင်ငံ လွတ်လပ်ရေး မရမီ အင်္ဂလိပ်အစိုးရ လက်ထက်၌ ရှမ်းပြည်နယ်သည် ရှမ်းပြည်မြောက်ပိုင်းခရိုင်၊ ရှမ်း

ပြည် တောင်ပိုင်းခရိုင် ဟူ၍သာ ခွဲခြား သတ်မှတ်ထားခဲ့လေသည်။ လွတ်လပ်ရေး ရပြီး၍ စော်ဘွားများ အုပ်ချုပ်ရေးအာဏာ စွန့်လွှတ်ပြီးသောအခါ အုပ်ချုပ်ရေး ကိစ္စအဝဝတို့ကို ပိုမို တွင်ကျယ်စွာ ဆောင်ရွက်နိုင်ရန် ရှမ်းပြည်နယ်ကို ခရိုင် ခြောက်ခရိုင် ခွဲခြား၍ တိုင်းမင်းကြီးခရိုင်ဝန်၊ နယ်ပိုင်၊မြို့ပိုင် စသည်တို့ဖြင့် အုပ်ချုပ်ခဲ့လေသည်။ ထိုခရိုင်များအနက် လားရှိုးခရိုင်တွင် မြောက် သိန္နီနယ်သည် လားရှိုး ခရိုင်ခွဲ၏ မြို့နယ်တခု အဖြစ်ရင်း၊ တောင်သိန္နီနယ် (မိုင်းရယ်နယ်)သည် တန့်ယမ်းခရိုင်ခွဲ၏ မြို့နယ်တခု အဖြစ်ရင်း ပါဝင်ခဲ့လေသည်။

မြောက် သိန္နီနယ်၏ အကျယ်အဝန်းမှာ စတုရန်း မိုင်ပေါင်း ၆,၄၂၂ မိုင်ရှိ၍ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေမှာ ၂၄၃,၄၉၉ ယောက် ရှိသည်။ မြောက်ဖက်နှင့် အရှေ့ဖက်တွင် တရုပ်ပြည်သူ့သမတနိုင်ငံ၊ တောင်ဖက်တွင် ဝနယ်နှင့် တောင်သိန္နီနယ်၊ အနောက်ဖက်တွင် သီပေါနယ်၊ ငွတောင်ပိုင်နယ်၊ မိုးမိတ်နယ်နှင့် ဗန်းမော်ခရိုင်တို့ဖြင့် ဝိုင်းရံလျက် တည်ရှိသည်။ မြောက်သိန္နီနယ်၏ မြောက်ဖက်ဒေသအတော်များများတွင် တောင်ကုန်းများ ထူထပ်၍ ကချင်လူမျိုးများ နေထိုင်ကြသည်။ နေရာ အနှံ့အပြားတွင် ပလောင်ရွာများ ရှိ၍ တရုပ်လူမျိုးများလည်း အနည်းငယ် နေထိုင်ကြသည်။ စပါး စိုက်ပျိုးသော မြစ်ဝှမ်းများသည် ရှမ်းလူမျိုးများ လက်ထဲတွင် ရှိနေသေးသည်။ သံလွင်မြစ်အရှေ့ဖက်တွင် ကိုးကန့်နယ် ရှိသည်။ တောင်ဖက်ပိုင်းသည် မြေအလွန် နိမ့်၍ နမ္မတူမြစ်(မြစ်ငယ်မြစ်)နှင့် ယင်း၏ လက်တက် ဒေသတလျှောက်တွင် မြေညီညာသည်။ ဤအပိုင်းသည် အလွန် အဖိုးတန်သော အပိုင်း ဖြစ်၍ ရှမ်းလူမျိုး အမြောက်အမြား နေထိုင်၍ ကချင်နှင့် အခြား တောင်ပေါ်သားများ အနည်းငယ် ရှိကြသည်။

သိန္နီမြို့သည် ရှမ်းပြည် မြောက်ပိုင်းတိုင်း လားရှိုးခရိုင် သိန္နီမြို့နယ်၏ မြို့ပိုင် ရုံးစိုက်ရာ မြို့ဖြစ်သည်။ လားရှိုးမြို့မှ ၃၂ မိုင် ဝေးကွာ၍ တရုပ်–မြန်မာ လမ်းမကြီးပေါ်တွင် တည်ရှိကာ ကွမ်းလုံသွား ကားလမ်းခွဲမြို့လည်း ဖြစ်သည်။ မြို့၏အကျယ်အဝန်းမှာ စတုရန်း တမိုင်ခန့်ရှိ၍ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၃,၅၇၆ ယောက် ရှိသည်။

သိန္နီမြို့ဟု ခေါ်တွင်လာရခြင်းမှာ ဤသို့ ဖြစ်သည်။ သိန္နီနယ်ကို အုပ်စိုးသော ရှေးစော်ဘွားကြီး တဦးသည် ကျောက်စိမ်းထွက်ရာ ဒေသဖြစ်သော မိုးညှင်း၊ မိုးကောင်း တို့ကိုပင် အုပ်စိုးခဲ့ဘူးသည်။ တရုပ်လူမျိုးတို့သည် ကျောက်စိမ်းကို အလွန် မြတ်နိုးသော သူများ ဖြစ်သဖြင့် ထိုစော်ဘွားပိုင်သည့်နယ်ကို ရှေးတရုပ်ဘာသာစကားဖြင့် 'ဆိုင်ဇီ' ဟု ခေါ်တွင်ခဲ့၏။ ကျောက်စိမ်းပြည်ဟု အဓိပ္ပာယ်ရသည်။ နောင် ကာလရွှေလျောသောအခါ 'ဆိုင်ဇီ'မှ 'ဆိုင်ဝီ'ဖြစ်လာသည်။ သိန္နီစော်ဘွားကြီးနန်းစိုက်ရာမြို့ကို 'ဝိုင်းဆိုင်ဝီ' ဟုခေါ်သည်။ ယခု ရှမ်းအခေါ် 'ဆိုင်ဝီ' မြန်မာအခေါ် 'သိန္နီ'မြို့မှာ စော်ဘွားကြီး ခွန်ဆိုင်တုံဟမ်းသည် မြန်မာ သက္ကရာဇ် ၁၂၃၆ ခုနှစ်က နမ္မတူမြစ် (မြစ်ငယ်မြစ်)တောင်ဖက်ကမ်းမှ မြောက်ဖက်ကမ်းသို့ ပြောင်းရွှေ့ နန်းစိုက်ခဲ့သော မြို့ဖြစ်ရာ ယနေ့တိုင်'ဝိုင်းဆိုင်ဝီ'ဟု ခေါ်တွင်နေခြင်း ဖြစ်သည်။ မြို့တွင်း၌ အလွန်ထင်ရှားသော မဟာမြတ်မုနိ ရုပ်ပွားတော် တဆူရှိသည်။ နှစ်စဉ် တပေါင်းလတွင် ဘုရားပွဲတော်ကျင်းပသည်။ ထိုပြင် ဆေးရုံ၊ အစိုးရ အထက်တန်းကျောင်း၊ အစိုးရရုံး အဆောက်အအုံများ၊ စာပို့တိုက်၊ မြို့လယ် မင်္ဂလာရုံ ပတ္တမြားကျောင်းနှင့် မုံဆာကျောင်း၊ ကမ္ဘောဇနာန်းကျောင်းများလည်း ရှိသည်။

တောင်သိန္နီနယ်၏ အကျယ်အဝန်းမှာ ၂,၃၅၁ စတုရန်းမိုင် ဖြစ်၍ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေမှာ ဂ၂,၆၇၂ ယောက် ရှိသည်။ မြောက်ဖက်တွင် မြောက်သိန္နီ၊ တောင်ဖက်တွင် မိုင်းလွန်းနယ်နှင့် ကျေးသီးမံစံနယ်၊ အရှေ့ဖက်တွင် သံလွင်မြစ်၊ ဝနယ်နှင့် အနောက် မိုင်းလွန်းနယ်၊ တောင်ဖက်တွင် သီပေါနယ်နှင့် မြောက်သိန္နီနယ် တို့ဖြင့် ဝိုင်းရံလျက် တည်ရှိသည်။ ယင်းနယ် အလယ်တွင် တောင်တန်း တခု ဖြတ်သန်းလျက် ရှိသည်။ တောင်ယာနှင့် လယ်ယာများ အညီအမျှ စိုက်ပျိုးကြသည်။ ဆန်စပါးအပြင် ဝါဂွမ်းနှင့် ကြံ စိုက်ပျိုးကြသည်။ မြို့ပိုင် ရုံးစိုက်ရာ မြို့သည် မိုင်းရယ်မြို့ ဖြစ်သည်။ ယခင်က လက်ထောက်နိုင်ငံရေးအရာရှိတို့သည် တောင်ရန်မြို့၌ ရုံးထိုင်ခဲ့ကြသည်။ (မိုင်းရယ်မြို့ — လည်းရှု။)

**သိပ္ပံပညာ။** ။သိပ္ပံပညာဆိုသည်မှာ သဘာဝတရား၏ ဖြစ်ပျက် ပြောင်းလဲမှုတို့နှင့် ထိုဖြစ်ပျက် ပြောင်းလဲမှုတို့၏ အကြောင်းအကျိုး အမှန်တို့ကို နည်းစံနစ် ကျနစွာ လေ့လာ အသုံးချနိုင်သောပညာရပ်ကို ဆိုလိုသည်။ သိပ္ပံပညာသည် နည်းစံနစ် ကျန၍ ခိုင်မြဲတိကျရသည်။ ကျွန်ုပ်တို့သည် မွေးကတည်းကစ၍ ပတ်ဝန်းကျင်၌ ဖြစ်ပျက်လျက်ရှိသော ဒြဗ်တို့၏အလယ်၌ နေခဲ့ရသည်ဖြစ်၍ အာရုံခံစားတတ်သည့် အရွယ်တွင် ကျွန်ုပ်တို့၏ပတ်ဝန်းကျင်ကို အမြင်၊ အကြား၊ အနံ့၊ အရသာ၊ အတွေ့အထိတည်းဟူသော အာရုံငါးပါးနှင့် တဖြည်းဖြည်း ခံစားတတ်လာကြလေသည်။

ထိုအတူပင် ကမ္ဘာဦးကတည်းက လူတို့သည် ကမ္ဘာလောကကြီး အတွင်း ဖြစ်ပျက်နေသမျှသော အကြောင်းအရာတို့ကို အာရုံငါးပါးနှင့် ခံစားတတ်လာကြသောအခါ တဖြည်းဖြည်းနှင့် သူတို့၏ ပတ်ဝန်းကျင်ရှိ အရာဝတ္ထုဒြဗ်တို့၏ ဂုဏ်သတ္တိတို့ကို နားလည် သိရှိလာခဲ့ကြလေသည်။ 'အို နှင်းဆီပန်းလေးနှယ် လှလိုက်တာ' ဟု ဆိုလိုက်သော



**သိပ္ပံပညာကို လေ့လာရာ၌ ဤသို့ စံနစ်တကျ လက်တွေ့ စမ်းသပ်မှုများ ထပ်တလဲလဲ ပြုလုပ်ရသည်။**

စကားလုံးများမှာ နှင်းဆီပန်း၏ အလှကို စက္ခုအာရုံနှင့် ခံစားမိရာမှဖြစ်ပေါ်လာသော စကားလုံးများပင် ဖြစ်လေသည်။ နှင်းဆီပန်း၏ ရနံ့သည် မွှေးမှန်းသိသကဲ့သို့ပင် နှင်းဆီပန်းအခက်မှ ဆူးတို့သည် နာကျင်စေတတ်သည်ကိုလည်း ခံစားနိုင်ခဲ့ကြသည်။ သစ်သီးပင်မှ သစ်သီးသည် ချိုမြိန်မှန်းကိုလည်း သိရှိလာခဲ့ကြ၏။ သောတအာရုံအားဖြင့် ခြသေ့်ဟောက်သံ၊ ကျားဟိန်းသံ စသည်တို့ကိုလည်း သိလာခဲ့ကြလေသည်။ ထိုအခါ လူသည် ထိုအာရုံငါးပါးနှင့် ခံစားမိသည့် အချက်တို့ကို စုပေါင်း၍ သူ့၌ အသိဉာဏ်ကို ရရှိလာလေသည်။

ဘောလုံးငယ်တလုံးကို စားပွဲ အစွန်းတဖက်သို လိမ့်လိုက်ပါက စားပွဲစွန်း လွန်သည့် တခဏ၌ ဘောလုံးသည် ဆက်လက်၍ လိမ့်မသွားပဲ အောက်သို့ကျသွားသည်ကို တွေ့ရမည်။ ထိုအခြင်းအရာမှာ အမှန် ဖြစ်တတ်သော အခြင်းအရာမျိုး ဖြစ်၍ ထိုအခြင်းအရာမျိုးကို သိရှိလာသူသည် သူ၏အသိတရားကို တဖြည်းဖြည်းနှင့် စွဲမြဲယုံကြည်လာ၏။ လိမ့်လိုက်သော ဘောလုံးငယ်သည် စားပွဲအစွန်းတဖက်၌ ပျောက်ကွယ်သွားသွာအခါတွင် ထိုသူသည် ဘောလုံးကို အိမ်ခေါင်မိုးဆီသို့ မော့ကြည့်ရှာဖွေမနေပဲ ကြမ်းပြင်သို့သာ ငုံ့ကြည့် ရှာဖွေမည်ဖြစ်၏။ ဤသို့ ပြုလုပ်ခြင်းမှာ သူ၏ အသိတရားကို ယုံကြည်စွဲမြဲလျက် ရှိသောကြောင့်ဖြစ်လေသည်။

ထိုနောက် မှိစကလေး တစသည် အောက်သို့ မကျပဲ လေထဲ၌ စီးလိုက်ပါသွားသည်ကို တွေ့ကြရသော အခါ၌ အဘယ်ကြောင့် ဤသို့ဖြစ်ရသည်ကို စုံစမ်းလိုစိတ် ပေါ်လာကြပေမည်။ ထိုအခြင်းအရာကို လေ့လာ ကြည့်ကြသော အခါ လေထက် ပေါ့သော အရာဝတ္ထုတို့သည် လေထဲ၌ ပျံဝဲခြင်း၊ သို့မဟုတ် ပျံတက်ခြင်းတို့ကို ပြုလုပ်နိုင်သည်ကို သိရှိလာကြလေသည်။ ထိုအခါ မူလက အရာဝတ္ထုတို့၏ အောက်သို့ ကျတတ်သော သဘောကို နားလည်ထားသူတွင် အသိသစ်တခု တိုးလာလေတော့သည်။ ထိုအသိသစ်မှာ ထိုသူအဖို့ သိပ္ပံပညာတရပ်ဖြစ်လေသည်။ ဤသိပ္ပံပညာရပ်ကား ရူပဗေဒ သိပ္ပံပညာပေတည်း။ ထိုနောက် လူတို့အား များစွာ အသုံးဝင်စေသော တိရစ္ဆာန်နှင့် သစ်ပင်တို့ကို သတိပြုမိလာကြ၍ ထိုအကြောင်းအရာတို့ကို လေ့လာကြသောအခါ ဇီဝဗေဒဆိုင်ရာ သိပ္ပံပညာ စတင် ပေါ်ထွန်းလာလေသည်။

သိပ္ပံပညာ တိုးတက်လာမှုမှာ မြေကြီးထဲမှ ရုတ်တရက် ပေါ်ထွက်လာသည့် ပဒေသာပင်ကဲ့သို့ မဟုတ်ပေ။ အရာဝတ္ထုနှင့် သက်ဆိုင်သော နိယမများကို လေ့လာရှာဖွေရာမှ တဖြည်းဖြည်းနှင့် သိပ္ပံပညာနယ်သည် ကျယ်ဝန်းသည်ထက် ကျယ်ဝန်းလာခြင်းသာဖြစ်သည်။ ယခုအခါတွင် သိပ္ပံပညာသည် မည်မျှ နက်နဲ ကျယ်ဝန်းလာသနည်း ဟူမူ မည်သည့် လူတဦးတယောက်မျှ သိပ္ပံပညာ အားလုံး ကုန်အောင် နှံ့စပ်စွာ တတ်ကျွမ်း နားလည်နိုင်မည်မဟုတ်ချေ။ အဘယ်ကြောင့်ဆိုသော် သိပ္ပံပညာတွင် ပညာရပ်အမျိုးမျိုး ပါဝင်၍ ပညာရပ် တခုစီသည်ပင် ကျယ်ဝန်းလှသဖြင့် သီးခြား လေ့လာသင်ကြားရန် လိုအပ်သောကြောင့် ဖြစ်ပေသည်။ ဇီဝဗေဒကို တိရစ္ဆာန်တို့နှင့်ဆိုင်သော ပါဏဗေဒနှင့် သစ်ပင်တို့နှင့်ဆိုင်သော ရုက္ခဗေဒ ဟူ၍ နှစ်ပိုင်း ခွဲခြားထားသည်။ ပါဏဗေဒအောက်တွင် တဖန် ငှက်များနှင့်သာ ဆိုင်သော ငှက်အမျိုးမျိုးအကြောင်း ပညာဟူ၍ သီးခြားတဘာသာ ခွဲထုတ်ရပြန်လေသည်။

သိပ္ပံပညာရပ်များတွင် ရူပဗေဒ၊ ဓာတုဗေဒ၊ နက္ခတ္တဗေဒ စသည့် ဒြပ်နှင့်ဆိုင်သော သိပ္ပံပညာရပ်များ ပါဝင်သည်။ ရူပဗေဒသည် အပူ၊ လျှပ်စစ်ဓာတ်၊ အလင်း စသည်တို့၏ အကြောင်းများနှင့် ဒြပ်တို့၏ အကြောင်းအရာများကို ပြဆိုသော သိပ္ပံပညာရပ် ဖြစ်ပေသည်။

သိပ္ပံပညာတွင် ပါဏဗေဒ၊ ရူပဗေဒ၊ ဓာတုဗေဒ စသည့် ပညာရပ်များမှာ သီးခြား အကြောင်းအရာများ ဖြစ်သည့် ပညာရပ်များဖြစ်၍ သင်္ချာနှင့် ယုတ္တိဗေဒတို့မှာ အကြောင်းအရာအမျိုးမျိုးနှင့် သက်ဆိုင်သည့် ပညာရပ်များဖြစ်သည်။ ထိုပညာရပ်နှစ်မျိုးအား အခြားပညာရပ်များနှင့် ဆက်သွယ်ပေးနိုင်ပေသည်။ အသုံးချမှုသင်္ချာ ပညာမှာ ရူပဗေဒနှင့် သင်္ချာတို့ကို ဆက်သွယ်ပေးထားသော ပညာရပ် ဖြစ်၏။ အမှန်စင်စစ် ဓာတုဗေဒ၊ ရူပဗေဒ၊ ဇီဝဗေဒ စသည့် သိပ္ပံပညာရပ် အားလုံးတို့သည်လည်း တခုနှင့်တခု ဆက်သွယ်လျက် ရှိကြလေသည်။ အထက်ပါ ပညာရပ်များအပြင် ဘူမိဗေဒ၊ မနုဿဗေဒ စသည့် သိပ္ပံပညာရပ်များလည်း ရှိသေးရာ ထိုပညာရပ် အားလုံးကို ကုန်စင်အောင် ဖော်ပြရလျှင် အလွန်ရှည်လျားပေမည်။



ယခုအခါတွင် သိပ္ပံပညာသည် မည်မျှတိုးတက်လာသနည်းဟူမူ ဗုဒ္ဓဟူးဂြိုဟ်၊ သောကြာဂြိုဟ်တို့၏ အပူ၊ အလင်း၊ ဆွဲငင်အားနှင့် ဓာတ်များအကြောင်း လေ့လာရန် မရိနားအာကာသယာဉ်များကိုပင် ပစ်လွှတ်နိုင်ခဲ့ပြီး ဖြစ်နေချေပြီ။

စက်မှုလက်မှုများ တိုးတက်လာသောအခါ သိပ္ပံပညာ၏ နိယမများကို စက်မှုလက်မှုတို့တွင် ယှဉ်တွဲ အသုံးချခြင်းဖြင့် အသုံးချ သိပ္ပံပညာ ဟူ၍ ပညာသစ်တရပ် ပေါက်ဖွားလာပြန်လေသည်။ အသုံးချ သိပ္ပံပညာတွင် အင်ဂျင်နီယာပညာ၊ ဆေးပညာ၊ စိုက်ပျိုးရေးပညာ စသည်တို့ ပါဝင်သည်။

သိပ္ပံပညာတွင် အကြောင်းအရာတခုကို လေ့လာရာ၌ နည်းစံနစ်ကျဖို့ အလွန်အရေးကြီးပေသည်။ ပဌမ လေ့လာလိုသော အကြောင်းအရာတခုနှင့် သက်ဆိုင်သမျှသော အကျိုးအကြောင်း အချက်အလက်တို့ကို စုဆောင်း၍ ထို အချက်အလက်တို့ကို အခြေတည်ကာ စဉ်းစားပြီးလျှင် မိမိ၏ မှန်းဆ ယူမှတ်ချက်တခုကို ဆုံးဖြတ်ရ၏။ ထိုဆုံးဖြတ်ချက်ကို မှတဖန် အတည်ဖြစ်စေရန် လက်တွေ့ စမ်းသပ်မှုများ ထပ်တလဲလဲ ပြုလုပ်ပြီးလျှင် ခိုင်လုံသော အကြောင်းအချက်တို့ကို ရရှိသောအခါတွင် တိကျပြတ်သားသော ဆုံးဖြတ်ချက်ကို ပြုလုပ်ရသည်။ ဤသို့ နည်းစံနစ်ကျနမှသာ သိပ္ပံပညာ အစစ် ဖြစ်လာနိုင်ပေသည်။

**သိပ္ပံမောင်ဝ။** ။စိန်တင်၊ ဦး—ရှု။

**သိပ်သည်းခြင်း။** ။အရွယ်တူ၊ ပုံစံတူ ပုံးနှစ်လုံးကိုယူ၍ တလုံးတွင် သဲအပြည့် ထည့်ပြီးလျှင် အခြားတလုံးတွင် ရေအပြည့်ထည့်လျက် ချိန်ကြည့်လျှင် သဲတပုံးသည် ရေတပုံးထက် အလေးချိန် အလွန်ပိုနေမည်ကို တွေ့ရလိမ့်မည်။ သို့သော် သဲ၏ ထုထည်ကား ရေ၏ ထုသည်နှင့် တူညီ၏။ ထုထည်ချင်း တူညီပြီး အလေးချိန် ကွာခြားနေရခြင်းမှာ သဲ၏ ဒြပ်ထုသည် ရေ၏ဒြပ်ထုထက် ပိုမို ကျစ်လျစ်သိပ်သည်းခြင်းကြောင့် ဖြစ်သည်။ အဓိပ္ပါယ်မှာ သဲသည် ရေထက် သိပ်သည်း၏။ တဖန် သံနှင့် သဲတို့ကို နှိုင်းဆကြည့်လျှင် သံသည် သဲထက် သိပ်သည်းကြောင်း တွေ့ရပြန်သည်။ ဒြပ်ထုဆိုသည်မှာ အရာဝတ္ထုတခု၏ ကိုယ်ထည်တွင် ပါရှိသော ပစ္စည်းထုဖြစ်သည်။ အရာဝတ္ထုတခု၏ ဒြပ်ထုကို ဂရမ်ဖြင့် ပြ၍ ထုထည်ကို ကုဗစင်တီမီတာဖြင့် ပြသော် ထိုအရာဝတ္ထု၏ သိပ်သည်းခြင်းသည် တကုဗစင်တီမီတာတွင် ရှိသော ဂရမ်ဖြစ်သည်။ အကယ်၍ အရာဝတ္ထုတခု၏ ဒြပ်ထုကို ပေါင်ဖြင့်ပြ၍ ထုထည်ကို ကုဗပေဖြင့် ပြသော် ထိုအရာဝတ္ထု၏ သိပ်သည်းခြင်းသည် တကုဗပေတွင်ရှိသော ပေါင်ဖြစ်သည်။

အရာဝတ္ထုတခု၏ ဒြပ်ထုသည် ၄၈ ဂရမ်ရှိ၍ ထုထည်သည် ၁၂ က စ (ကုဗစင်တီမီတာ)ရှိသည် ဆိုပါစို့။ ထိုအရာဝတ္ထု၏ သိပ်သည်းခြင်းသည် တကုဗစင်တီမီတာတွင် ရှိသော ဂရမ်ဖြစ်သောကြောင့် —

ဒြပ်ထု = ၄၈ ဂရမ်

ထုထည် = ၁၂ က စ

$$\text{သိပ်သည်းခြင်း} = \frac{\text{ဒြပ်ထု}}{\text{ထုထည်}} = \frac{\text{၄၈}}{\text{၁၂}}$$

$$= \text{၄ ဂရမ် ဖြစ်သည်။}$$

ထို့ကြောင့် ထိုအရာဝတ္ထု၏ သိပ်သည်းခြင်းသည် တကုဗစင်တီမီတာလျှင် ၄ ဂရမ် လေးသည်ဟု အဓိပ္ပါယ်ရသည်။

တဖန် အရာဝတ္ထုတခု၏ ဒြပ်ထုသည် ပေါင် ၂၀ လေး၍ ထုထည်သည် ၈ ကုဗပေရှိလျှင် —

ဒြပ်ထု = ၂၀ ပေါင်

ထုထည် = ၈ ကုဗပေ

$$\text{သိပ်သည်းခြင်း} = \frac{\text{ဒြပ်ထု}}{\text{ထုထည်}}$$

$$= \frac{\text{၂၀}}{\text{၈}}\text{ပေါင်}$$

$$= \text{၂.၅ ပေါင် ဖြစ်သည်။}$$

အရာဝတ္ထု အမျိုးမျိုးတွင် သိပ်သည်းခြင်း အမျိုးမျိုး ရှိ၏။ ရေ၏ သိပ်သည်းခြင်းသည် တကုဗစင်တီမီတာလျှင် တဂရမ် ဖြစ်သည်။ ပြဒါး၏ သိပ်သည်းခြင်းသည် တကုဗစင်တီမီတာလျှင် ၁၃.၆ ဂရမ် ဖြစ်သည်။ ထို့ကြောင့် ပြဒါးသည် ထုထည်တူညီသော ရေထက် ၁၃.၆ ဆ လေးသည်။

**သိပ်သည်းဆ။** ။ပစ္စည်းတခု၏သိပ်သည်းဆဆိုသည်မှာ ထိုပစ္စည်း၏ သိပ်သည်းခြင်းနှင့် ရေ၏ သိပ်သည်းခြင်းတို့၏ နှိုင်းယှဉ်ချက်ဖြစ်၍ တနည်းအားဖြင့် ပစ္စည်းတခုသည် ရေနှင့် နှိုင်းယှဉ်လျှင် အဆပေါင်း မည်မျှလေးသည်ကို ပြသော ကိန်းပင် ဖြစ်သည်။ ပုံပမာ—ရွှေ၏ သိပ်သည်းဆသည် ၁၉ ဖြစ်သည်ဟု ဆိုရာ၌ ရွှေသည် အရွယ်ထုချင်း တူညီသော ရေထက် ၁၉ ဆ ပိုလေးသည်ဟု ဆိုလိုခြင်း ဖြစ်၏။

ပစ္စည်းတခု၏ သိပ်သည်းဆကို သိလိုသောအခါ ထိုပစ္စည်း၏ အလေးချိန်ကို အရွယ်ထုချင်း တူညီသော ရေ၏အလေးချိန်နှင့် စားရပေသည်။

ပစ္စည်းအသီးအသီးတို့သည် တခုနှင့်တခု အလေးအပေါ့ချင်း မတူကြပဲ အလေးချိန် ခြားနားချက်များ ရှိကြ၏။ ထို့ကြောင့် ပစ္စည်းအသီးအသီးတွင် သိပ်သည်းဆ အမျိုးမျိုး ရှိနိုင်ကြ၍ အလေးချိန် ခြားနားချက်ကို ကြည့်ခြင်းဖြင့်လည်း ပစ္စည်းအမျိုးမျိုးကို တခုနှင့်တခု ခွဲခြားနိုင်ပေသည်။ ရှေးက ဂရိလူမျိုး သိပ္ပံပညာရှင်ကြီးတဦး ဖြစ်သူ အာခီးမီးဒီးသည် သူ့ဘုရင်၏ သရဖူသည် ရွှေအစစ် မဟုတ်ကြောင်းကို အဆိုပါ အလေးချိန် ခြားနားမှုသဘောဖြင့်ပင် ပြတ်သားစွာ ဖြေရှင်းနိုင်ခဲ့ပေသည်။

ပစ္စည်းတခုသည် ရေထဲ၌လေထဲမှာထက်ပို၍ပေါ့ကြောင်းကို သိခဲ့၍ မည်မျှ ပေါ့ကြောင်းကိုလည်း နိယမတခုဖြင့် သတ်မှတ် ပြဋ္ဌာန်းထားခဲ့သည်။ ထိုသို့ ဖြစ်ရခြင်းမှာ ပစ္စည်း၌ ပေါ့

ဂုဏ်ရှိခြင်းကြောင့် ဖြစ်သည်ဆို၏။ အာခီးမီးဒီးပြဋ္ဌာန်းထားခဲ့သော နိယမမှာ သူ့အား ဂုဏ်ပြုသောအားဖြင့် ယခုတိုင်အောင် အာခီးမီးဒီး နိယမဟူ၍ အမည်တွင်လျက်ရှိပေသည်။ ထိုနိယမ အရ ပစ္စည်းတခုကို အရည်တခုတွင် ထည့်လိုက်သောအခါ၌ လျော့သွားသော အလေးချိန်သည် ထိုပစ္စည်းက ဖယ်ထုတ်လိုက်သော အရည်၏ အလေးချိန်နှင့် အတူတူပင် ဖြစ်သည်ဟု ဆိုလေသည်။

ပစ္စည်းတခု၏ သိပ်သည်းဆကို အာခီးမီးဒီး နိယမဖြင့် အောက်ပါအတိုင်း ရှာဖွေသိရှိနိုင်သည်။

ရှေးဦးစွာ ပစ္စည်းကို လေထဲ၌ ပဌမ ချိန်ကြည့်ရ၏။ ထိုနောက် ရေထဲ၌ တဖန် ချိန်ကြည့်၍ ရေထဲရှိ အလေးချိန်ကို လေထဲရှိ အလေးချိန်မှ နုတ်လိုက်လျှင် လျော့သွားသော အလေးချိန်၊ သို့မဟုတ် ဖယ်ထုတ်ခြင်း ခံရသော ရေ၏ အလေးချိန်ကို ရလေသည်။ သို့သော် ဖယ်ထုတ်ခြင်းခံရသော ရေ၏အရွယ်ထုသည် ရေထဲသို့ ချပေးသော ပစ္စည်း၏အရွယ်ထုနှင့် တူညီရကား ဖယ်ထုတ်ခြင်းခံရသော ရေ၏ အလေးချိန်မှာ အဆိုပါ ပစ္စည်းနှင့် အရွယ်ထုချင်း တူညီသော ရေ၏ အလေးချိန်ပင် ဖြစ်၏။ ထိုကြောင့် ပစ္စည်း၏လေထဲရှိ အလေးချိန်ကို ရေထဲ၌ လျော့သွားသည့် အလေးချိန်နှင့် စားလိုက်ပါက ထိုပစ္စည်း၏ သိပ်သည်းဆကို ရပေမည်။ ပုံပမာ--ပစ္စည်းတခုသည် လေထဲ၌ ၁၇ ပေါင် လေးပြီးလျှင် ရေထဲ၌ နှစ်၍ ချိန်သောအခါ ၁၅ ပေါင် လေးသည်ဆိုပါစို့။ ထိုအခါ လျော့သွားသည့် အလေးချိန်သည် (၁၇−၁၅)= ၂ ပေါင် ဖြစ်သဖြင့် ပစ္စည်း၏ သိပ်သည်းဆမှာ $\frac{၁၇}{၂}$ = ၈.၅ ဖြစ်လေသည်။

ရေထက်ပေါ့သော ပစ္စည်း၏ သိပ်သည်းဆကို ရှာဖွေလိုသောအခါ ရေတွင် ထိုပစ္စည်းကို ရေထဲသို့ နှစ်ပေးနိုင်မည့် ပစ္စည်း အပိုတခုကို အသုံးပြုခြင်းအားဖြင့် ပစ္စည်း၏ရေထဲ၌ လျော့သွားသော အလေးချိန်ကို တမျိုးတမည် ရှာဖွေရ၏။ ထိုနောက် သိပ်သည်းဆကို အထက်နည်းအတိုင်းပင် တွက်ချက်ရလေသည်။

အရည်တခု၏ သိပ်သည်းဆကို သိလိုသောအခါ အာခီးမီးဒီး နိယမကို မသုံးပဲ ပုလင်းတလုံးကို အသုံးပြုခြင်းအားဖြင့် လွယ်ကူစွာ ရှာဖွေနိုင်သည်။ ဤကိစ္စအတွက် ဟိုက်ဂရိုမီတာခေါ် သိပ်သည်းဆတိုင်း ပုလင်းကို အသုံးပြုလေ့ရှိကြသော်လည်း သာမန် ပုလင်းများကိုလည်း သုံးနိုင်ပေသည်။ ပုံပမာ--သိပ်သည်းဆတိုင်း ပုလင်းလွတ်တလုံး၏ အလေးချိန်သည် ဂရမ် ၃၀၀ ဖြစ်၍ ရေအပြည့်နှင့် ချိန်ကြည့်ရာတွင် ဂရမ် ၈၀၀ ရှိပြီးလျှင် ခာတ်ဆီအပြည့်နှင့် ချိန်ကြည့်သောအခါ ၆၇၅ ဂရမ်ရှိသည် ဆိုပါစို့။ ထိုအခါ ရေ၏ အလေးချိန်သည် (၈၀၀−၃၀၀)=၅၀၀ ဂရမ်ဖြစ်၍ ခာတ်ဆီ၏ အလေးချိန်သည် (၆၇၅−၃၀၀)=၃၇၅ ဂရမ် ဖြစ်သဖြင့် ခာတ်ဆီ၏ သိပ်သည်းဆသည် $\frac{၃၇၅}{၅၀၀}$= ၀.၇၅ ဖြစ်ကြောင်း တွက်ချက်သိရှိရလေသည်။

အထက်တွင် ပစ္စည်း အသီးအသီး၏ သိပ်သည်းဆသည် ရေ၏ အလေးချိန်နှင့် နှိုင်းယှဉ်ပြသော အဆ ဖြစ်သည့်အတိုင်း ရေ၏ သိပ်သည်းဆမှာ ၁ (တစ်)ဖြစ်သည် ဟု သိအပ်ပေသည်။

သို့ရာတွင် ဓာတ်ငွေ့များအတွက်ဖြစ်မူ လေကို စံပြုထားလေသည်။ ထိုကြောင့် လေ၏ သိပ်သည်းဆမှာလည်း ၁ ပင် ဖြစ်ကြောင်း သိရာသည်။

**သဗ္ဗညုဘုရား၊ ပုဂံ။** ။သဗ္ဗညုဘုရားသည် ပုဂံမြို့ဟောင်း အာနန္ဒာဘုရား၏ အနောက်တောင်ဖက် ကိုက် ၅၀၀ ခန့်အကွာတွင် တည်ရှိ၍ သက္ကရာဇ် ၄၈၆ ခုနှစ်၌ ပုဂံပြည့်ရှင် အလောင်းစည်သူမင်းကြီး တည်ထား ကိုးကွယ်တော်မူခဲ့သော စေတီ ဖြစ်သည်။ သက္ကရာဇ် ၄၇၄ ခုနှစ်တွင် မင်းအဖြစ်သို့ ရောက်တော်မူသော အလောင်းစည်သူ မင်းကြီးသည် ထီးနန်းစိုးစံတော်မူ၍ ၁၁ နှစ်အကြာ တနေ့သောအခါ၌ ဂေါတမမြတ်စွာဘုရား သက်တော် ထင်ရှားရှိစဉ် သီတင်းသုံးတော်မူရာ သာဝတ္ထိပြည်၏အရှေ့မျက်နှာရှိ ဝိသာခါ သဌေးမ၏ ကောင်းမှုဖြစ်သော ပုပ္ဗာရုံ ကျောင်းတော်သဏ္ဌာန် စေတီတည်ရသော် ကောင်းလေစွ ဟု အကြံဖြစ်တော်မူ၏။ ပုပ္ဗာရုံ ကျောင်းတော်ကား လက်ဝဲတော်ရံ ရှင်မောဂ္ဂလာန်၏ တန်ခိုးအာနုဘော်ဖြင့် မကြာမြင့်မီပင် တစုံတရာ ချွတ်ယွင်း ပျက်စီးခြင်းမရှိ၊အောင်အောင်မြင်မြင် ပြီးစီးခြင်းသို့ရောက်ရသော ကျောင်းတော်ကြီး ဖြစ်သည်။ ယင်းကျောင်းကြီးသည် ဘုံတိုက်ခန်း ၅၀၀၊ အထက်ဆင့်၌ တိုက်ခန်း ၅၀၀ အားဖြင့် တိုက်ခန်း ၁၀၀၀ တို့ဖြင့် ဆန်းကြယ်စွာ တန်းဆာဆင်ယင်ထားသည်။

အလောင်းစည်သူ မင်းကြီးသည် ရှင်အရဟံ၊ စိမ်းညက်မင်း သားတော် မဟာထေရ် ရှင်အာနန္ဒာ စသော သံဃာတော်အရှင်မြတ်များ၊ ပညာရှိ မှူးတော် မတ်တော်များနှင့် တိုင်ပင်၍ အရှင်မောဂ္ဂလာန် စီရင်တော်မူသော ပုပ္ဗာရုံကျောင်းနှင့် သဏ္ဌာန်တူစွာ အမြင့်သံတောင် ၁၆၀ ရှိသော သဗ္ဗညုစေတီကို သက္ကရာဇ် ၄၈၆ ခုနှစ်၌ တည်ထားကိုးကွယ်တော်မူ၏။ တိုင်းနိုင်ငံ အသီးအသီးမှ ဆက်သအပ်သော ဓာတ်တော်များကိုလည်း ဌာပနာ၍ မလည် တောင်ခြေအရပ်မှ ရအပ်သော ပတ္တမြားများကို ပေါက်ပေါက်ပြုကာ ကြဲဖြန့်ပူဇော်တော်မူ၏။ အခန်းကြီး အခန်းငယ်နှင့်တကွ အသွယ်သွယ်သော ကြောင်လိမ်တို့ကိုလည်း အုံမခန်းမျှ စိမ်



အလောင်းစည်သူမင်းကြီး တည်ထားကိုးကွယ်တော်မူခဲ့သော သဗ္ဗညုဘုရား

တော်မူ၏။ အချိန် တသောင်းရှိသော ကြေးစင် ခေါင်းလောင်းကြီးကိုလည်း သွန်းလုပ်လှူဒါန်းတော်မူ၏။ ဘုရား၏ အရှေ့တောင်ထောင့်တွင် ခေါင်းလောင်း ချိတ်ဆွဲသည့် ကျောက်တိုင်ကြီးများမှာ ယခုတိုင် ရှိနေသည်။ သဗ္ဗညုဘုရားကို တည်သောအခါ အုတ်တဖိုလျှင် အုတ်တချပ်ကျ နုတ်ယူ၍ ဘုရားတည်ထားရာ ယခုအခါ ဂရို့ဘုရားဟု ခေါ်စမှတ်ပြုကြသည်။ သဗ္ဗညုဘုရား၏ အရှေ့မြောက် စောင်းတန်းတွင် ကပ်လျက်ရှိသည်။

သဗ္ဗညုဘုရား တည်ဆောက်ထားပုံမှာ အာနန္ဒာဘုရား တည်ဆောက်ထားပုံကဲ့သို့ အာရုံခံ လေးဖက် လေးမျက်နှာ မရှိပဲ အရှေ့ဖက် တမျက်နှာတွင်သာ အာရုံခံရှိသည်။ ယင်း အာရုံခံသည် ကုလားကျောင်းမှ ထိုးထွက်နေသောကြောင့် ဘုရား၏စံနစ် ပုံစံမှာ အာနန္ဒာဘုရားကဲ့သို့ ကြက်ခြေလေးဖက် မညီချေ။ အာရုံခံတဖက်သာရှိသော်လည်း အုတ်နံရံထုအကြား၌ ဆောက်လုပ်ထားသော ကြောင်လိမ်လှေကားတို့ဖြင့် တက်ရသည့် အဆင့်ဆင့်ရှိသော အဆောက်အအုံ ဖြစ်သည်။ ပဌမနှင့် ဒုတိယ အဆင့်များသည် ရဟန်းတော်မျ‌ား သီတင်းသုံးရန်ဖြစ်၍ တတိယအဆင့်တွင် ရုပ်ပွားတော်များ ထားရှိသည်။ စတုတ္ထအဆင့်ကိုမူကား ပိဋကတ်တိုက်အတွက် အသုံးပြု၍ ပဥ္စမအဆင့်တွင်မှ စေတီတည်၍ ဓာတ်တော်များ ဌာပနာ ထားသည်။ သို့ဖြင့် အဆောက်အအုံမှာ စေတီလည်းဖြစ်၊ ကျောင်းလည်းဖြစ်လေသည်။ထုထည်ကြီးမားသော ပုဂံခေတ် ကုလားကျောင်းခံဘုရားများတွင် သဗ္ဗညုဘုရားလည်း တဆူ အပါအဝင် ဖြစ်လေသည်။

**သံခို၊ ရှင်(မြန်မာ ၉၆၀ ဖွား)။** ။စာပေ အမြောက်အမြားမရေးခဲ့သော်လည်း ရေးသမျှနှင့်ပင် ပဌမတန်းစားရတုဆရာဟု စာရင်းဝင် ဂုဏ်ပြုအပ်သော တောင်ငူခေတ် စာဆိုတော် ရှင်သံခိုသည် လှော်ကား ၃၀၀၀ မှူး၏မြေး ဖြစ်၍ မင်းဇေယျရန္တမိတ်၏တူ တော်ပြီးလျှင် ရတုဘုရင် နတ်သျှင်နောင်ထံ၌ ခစားသော အမတ်လည်းဖြစ်၏။ သက္ကရာဇ် ၉၆၀ ပြည့်နှစ်တွင် တောင်ငူမြို့၌ ဖွားမြင်သည်။ အသက် ၁၂ နှစ်သား အရွယ်ကပင် စတင်၍ ကဗျာလင်္ကာ စပ်ဆိုခဲ့သူ ဖြစ်လေသည်။

တောင်ငူကို အနောက်ဖက်လွန် မင်းတရားကြီး အလိုတော်ပြည့်၍ အင်းဝသို့ ပြန်တော်မူရာ ရှင်သံခို ပါသွားလေ

သည်။ အင်းဝရောက်လျှင် မင်းတရားကြီးထံပါးတွင် လက်ဆောင်ယူမှုအဖြစ် အမှုတော် ထမ်းရွက်ရ၏။

ထိုသို့ အမှုတော် ထမ်းရွက်စဉ် အနောက်ဖက်လွန် မင်းတရားကြီး၏သားတော် မင်းရဲဒိဗ္ဗကို ဖွဲ့ဆိုသော ချောင်းတစောင် ရေးသားခဲ့သေးသည်။ ထိုအခါက ရှင်သံခိုသည် အသက် ၁၆ နှစ် ၂၀ တွင်းလောက်ပင် ရှိဦးမည်ဟု ခန့်မှန်းရ၏။ သို့ရာတွင် ချောင်းဟောင်း ၁၂ စောင်တွင် အကောင်းဆုံး ချောင်းဟု ပညာရှိတို့ ခြီးကျူး ခေါ်ဆို ထိုက်သော ယင်း မင်းရဲဒိဗ္ဗ ချောင်းကို အချွယ်နှင့်မလိုက်အောင် ဖွဲ့ဆိုနိုင်ခဲ့လေသည်။ ထိုချောင်းတွင် ဘိုးတော် ဘေးတော်များ ပြုစုခဲ့သော မဟာကုသိုလ်တော်များကို ထည့်သွင်းဖွဲ့ဆိုထားရာ ရှေးချောင်းများထက် စုံလင်၍ ဖွဲ့ပုံဆန်းသည်ဟု ဆိုရပေသည်။

ရှင်သံခိုသည် ကဗျာ လင်္ကာ စပ်ဆိုရာ၌ ဆရာ နတ်သျှင်နောင်၊ ဦးရီး မင်းဇေယျရန္တမိတ်၊ အဖိုး လှော်ကား ဥဝဲဝ မှူးတို့၏ ဉာဏ်ရည်ကို မှီအောင် လိုက်နိုင်သူ ဖြစ်၏။ ကျေးစေရတုများ၌ နတ်သျှင်နောင်၏ လေသံကို အဘုယူ၍ ဘုရားတိုင်၌ မင်းနဝဒေးကြီး၏ အာဘော်ကို အရယူနိုင်၏။ ထိုကြောင့် ရှင်သံခို၏ ရတုများသည် ဆန်ကာချထားသကဲ့သို့ အသန့်ချည်း ဖြစ်တော့သည်။ သို့ရာတွင် ရတုဖွဲ့ဆိုရာ၌ နတ်သျှင်နောင်ကဲ့သို့ မေတ္တာဖက်ကို ဦးစားပေး၍ မရေးပဲ အလွမ်းဖက်ကို အားသန်စွာ ရေးသားလေသည်။ ရှင်သံခိုသည် ရတနာပြောင်မွန် ဆင်တော်ဘွဲ့ မော်ကွန်းတစောင်နှင့် 'နေနတ်ကသည်' အစချီသော ရတုပေါင်း ၁၀ စုံကိုလည်း ရေးသားသွား၏။ 'သာလွတ်ထွတ်တင်' ချီ ရတုကိုရေးသားဆက်သွင်းရာ စောင်းပါးရိပ်ခြေ အပြစ်အနာ ပါနေသဖြင့် အနောက်ဖက်လွန် မင်းတရားကြီး မျက်မာန်တော် ရှကာ ကွပ်မျက်မည်အပြုတွင် ပြည်ဝထင်ယံ တောင်းပန်လျှောက်ထားသဖြင့် အသက် ချမ်းသာရာ ရခဲ့လေသည်။

**သံချေး။** ။သံ၊ သို့မဟုတ် သံမဏိကို စိုထိုင်းသောလေတွင် ထားသောအခါ မျက်နှာပြင်တွင် နီညိုရောင် အကွက်များ ထလာသည်ကို တွေ့ဘူးကြပေမည်။ ထိုအကွက်တို့မှာ သံချေးတက်သည့် လက္ခဏာများပင် ဖြစ်သည်။ သံချေးကို ဓာတုဗေဒ အခေါ်အားဖြင့် အိုင်းယန်းအောက်ဆိုက် ဟု ခေါ်၏။ အမှန်စင်စစ် သံချေးမှာ ရေမှ အောက်ဆီဂျင်ဓာတ်နှင့် သံတို့ ပေါင်းစပ်ရာမှ ဖြစ်ပေါ်လာသော သံပြာပင် ဖြစ်၏။ ပြာ ဟုတ် မဟုတ် သိသာရန် သံချေးကို အမှုန့်ပြု ကြည့်ပါ။ ပြာအတိုင်း ညက်သော နေကြောင်းကို တွေ့ရမည်။ မြေဆီလွှာ၌ အနီရောင် သန်းနေခြင်းမှာ အိုင်းယန်းအောက်ဆိုက် ပါဝင်နေ၍ ဖြစ်သည်။ သွေး၏အရောင် နီနေခြင်းမှာလည်း သံဓာတ်ပါဝင်နေခြင်းကြောင့်ပင် ဖြစ်သည်။



သံသည် ဆားနေ့ရည်နှင့် ထိတွေ့လျှင် သံချေးတက်မြန်သည်။

လူတို့သည် ရေနှင့် အပင်များကို စားသုံးခြင်းဖြင့် သံဓာတ်ကို ရရှိကြလေသည်။

သံချေးတက်သောအခါ သံ၏ မျက်နှာပြင်သည် တဖြည်းဖြည်း ကြမ်း၍လာသည်။ သံ၏အားသည်လည်း ယုတ်လျော့၍သွား၏။ ထိုကြောင့် သံ၊ သံမဏိတို့ကို ခြောက်သွေ့သော နေရာတွင် ထားခြင်းဖြင့်၎င်း၊ အောက်ဆီဂျင်ဓာတ် မစားနိုင်သော ပစ္စည်းမျိုးဖြင့် မျက်နှာပြင် များကို အသားတင်ထားခြင်း၊သုတ်လိမ်းထားခြင်းဖြင့်၎င်း သံချေး မတက်အောင် ကာကွယ်ထားသင့်ပေသည်။ သံချေးကို ကာကွယ်နိုင်ရန် သံ၊ သို့မဟုတ် သံမဏိနှင့် ပြုလုပ်ထားသော ပစ္စည်းကို ကာဗောလစ်အက်ဆစ်နှင့် သံလွင်ဆီ ဆတူ ရောထားသော ဆီတွင် နှစ်ပြီးနောက် အဝတ်စဖြင့် မျက်နှာပြင်ကို ပွတ်တိုက်ပေးရသည်။ အခြား တနည်းမှာ ပြဒါးဖြင့် ဖော်စပ်ထားသော ဆီတမျိုးနှင့် နာနာ ပွတ်တိုက်ပေးရ၏။ ထိုအခါ မျက်နှာပြင် တဝှန်းလုံးတွင် ပြဒါးသည် ပါးလွှာစွာ အသားတင်လျက် ကျန်ရစ်သည်။ အခြား ကာကွယ်နည်းများလည်း အမြောက်အမြားပင် ရှိသည်။

သံချေးကို ကာကွယ်ရန်ထက် တက်မိသော သံချေးကို တားဆီးဖယ်ရှားပေးရန်မှာ သာ၍ ခက်ခဲသည်။သံချေးအတက် နုသေးပါက ရေဖြင့်၎င်း၊ သဲစက္ကူဖြင့်၎င်း တိုက်

ချွတ်၍ ဖယ်ရှားပစ်နိုင်သည်။ ကြာရှည်စွဲ၍ အသားထူနေသော သံချေးဖြစ်ပါက ကျောက်စက်တွင် တင်၍ဖြစ်စေ၊ တံစဉ်းဖြင့် တိုက်၍ဖြစ်စေ ဖယ်ရှားပစ်ရပေသည်။ သံနှင့် ထိကပ်နေသော အဝတ်များတွင်လည်း ညိုဝါရောင် သံချေးပြောက်များ စွဲတတ်ပေရာ ထိုသို့သော အကွက်များကို အောက်ဆဲလစ်အက်ဆစ် အပေါ့ရည်တွင် အဝတ်ကို ခဏမျှ စိမ်ပြီးနောက် ဆယ်၍ ရေနှင့် နာနာလျှော်ဖွပ်ပေးခြင်းဖြင့် ဖယ်ရှားပစ်နိုင်သည်။ သို့သော် အောက်ဆဲလစ် အက်ဆစ်သည် အဝတ်ကို စားတတ်သဖြင့် အက်ဆစ် အပြင်းစားကို မသုံးမိစေရန် သတိပြုအပ်၏။ ရှောက်ရည်ဖြင့်လည်း သံချေး အစွန်းအထေးများကို တခါတရံ ချွတ်ပစ်နိုင်ကြောင်း တွေ့ရလေသည်။

**သံချပ်ကာ။** ။ဥရောပတိုက်တွင် နပိုလီယန် စစ်ပွဲများပြီးသည့်တိုင်အောင် စစ်သဘော်များကို အမြောက်ကျည်ဆန်ဒဏ် ခံနိုင်စေရန် နှစ်ပေ အထူရှိသော ဝက်သစ်ချသားတို့ဖြင့် ဆောက်လုပ် လာခဲ့ကြသည်။ သို့သော် ၁၉ ရာစုနှစ် အလယ်ခေတ်လောက် ရောက်သောအခါ အမြောက်ကျည်ဆန်များသည် ယခင်ကထက် ပိုမို ပြင်းထန်လာသည့်အတွက် စစ်သဘော်များကို သံချပ်ကာများဖြင့် မဆောက်လုပ်လျှင် မဖြစ်သည့်အခြေသို့ ဆိုက်ရောက်လာလေသည်။

သံချပ်ကာ သမိုင်းကို ပြန်ကြည့်လျှင် ၁၈၀၅ ခုနှစ်၌ အင်္ဂလန်ပြည်တွင် အင်္ဂလိပ်လူမျိုး တဦးက ရှေးခေတ်



သံချပ်ကာ၏ ရှေးပြေး ချပ်ဝတ်တန်ဆာဝတ် မြင်းစီးသူရဲကောင်း

စစ်သူရဲကောင်းတို့ ဝတ်ဆင်ခဲ့သော ချပ်ဝတ်တန်ဆာ၏ သဘောကိုမှီး၍ သံချပ်ကာစစ်သဘော် ဆောက်လုပ်နိုင်မည့် နည်းကို ကြံစည်ထုတ်ဖော်ခဲ့ဘူး၏။ သို့သော် ထိုအကြံအစည်မှာ အကောင်အထည် မပေါ်ခဲ့ပေ။

၁၈၅၅ ခုနှစ်သို့ ရောက်မှ ပြင်သစ်နိုင်ငံတွင် လက်တွေ့အောင်မြင်သော သံချပ်ကာ စစ်သဘော် များကို စတင်တည်ဆောက်နိုင်လာသည်။ ထိုတွင် ပြင်သစ်လူမျိုးတို့သည် မိမိတို့ ဆောက်လုပ်သော ပဌမဆုံး သံချပ်ကာ စစ်သဘော်သုံးစင်းကို ရုရှတို့နှင့် တိုက်ခိုက်ရန် ကရိုင်မီးယား စစ်ပွဲသို့ ရှေးဦးစွာ စမ်းသပ်ပို့လွှတ်လိုက်သည်။ ထိုသံချပ်ကာ စစ်သဘော်သုံးစင်းသည် ကိုက် ၇၀၀ မှပစ်ခတ်သောအမြောက်ကျည်ဆန်ဒဏ်ကို သုံးနာရီတိုင်တိုင် ခံခဲ့ရသော်လည်း ဆိုလောက်အောင် ပျက်စီးခြင်း မရှိခဲ့ပေ။ အမေရိကန်နိုင်ငံပြည်တွင်းစစ် ဖြစ်ပွားစဉ်ကလည်း မော်နီတာနှင့် မာရီမက် အမည်ရှိသည့် သံချပ်ကာ စစ်သဘော်နှစ်စင်း ယှဉ်ပြိုင်တိုက်ခိုက်ကြရာ နှစ်စင်းစလုံး အမြောက်ကျည်ဆန်တို့၏ ဒဏ်ကို ကောင်းစွာ ခံနိုင်ရည်ရှိပုံကိုတွေ့ရသောကြောင့် သံချပ်ကာ၏အကျိုးရှိပုံကိုသိလာကြသည်။ထိုအချိန်မှစ၍ စစ်သဘော်များတွင် သံချပ်ကာများကို အများအပြား တပ်ဆင် အသုံးပြုလာကြလေသည်။

စစ်သဘော်များတွင် ပဌမဆုံး အသုံးပြုသည့် သံချပ်ကာများကို ချတ်သံဖြင့် ပြုလုပ်ခဲ့ကြသည်။ သို့ရာတွင် နောင်သော် သေနတ်အမြောက် စသည့် လက်နက်များက တနေ့တခြား ပြင်းထန်လာသည့်အတွက် ချတ်သံဖြင့် ပြုလုပ်သည့် သံချပ်ကာများကို နောက်ဆုံးတွင် မသုံးနိုင်တော့ပဲ ထိုထက်မာ၍ ခံနိုင်ရည်ရှိသည့် သံမျိုးကို ကြံစည် ပြုလုပ်ကြရပြန်လေသည်။ သံချပ်ကာများ တိုးတက် ခိုင်ခံ့လာသည်နှင့် အမျှ အမြောက်ဆန်များကလည်း ထိုသံချပ်ကာများကို ဖောက်ထွင်းပစ်ခတ်နိုင်အောင် တိုးတက်ပြင်းထန်လာသည်။ ဤနည်းဖြင့် အမြောက်ဆန်များကို ပြင်းထန်သည်ထက်ပြင်းထန်အောင် တိုးတက်လုပ်ကိုင်လာသလောက် သံချပ်ကာများကိုလည်း တနေ့တခြား ခိုင်မာသည်ထက် ခိုင်မာအောင် ပြုပြင်လုပ်ကိုင်လာကြရာ နောက်ဆုံးတွင် သံချပ်ကာများကို ကရိုမီယမ် အနည်းငယ် ရောစပ်ထားသော နစ်ကယ်သံမဏိဖြင့် လုပ်ကိုင်သည့်နည်းကို တွေ့လာကြသည်။ အဆိုပါသံမဏိမှ ခေတ်မှီသောစက်၊ ခေတ်မှီသောနည်းများဖြင့် အထူးတလည် ပြုလုပ်ရရှိသော သံချပ်ကာတို့မှာ အလွန်ပင်ခိုင်ခံ့၏။ မည်မျှ ခိုင်ခံ့သည့် သံချပ်ကာမျိုးဖြစ်စေကာမူ အနီးကပ်တိုက်ပွဲမျိုး ဖြစ်လျှင်ကား အလွန်ပြင်းထန်သော ခေတ်ပေါ် အမြောက်ကျည်ဆန်များကို ခံနိုင်ရည် မရှိပေ။ သို့သော် ယခုခေတ်စစ်ပွဲများတွင် စိုးရိမ်လောက်သော အနီးကပ် တိုက်ပွဲများလည်း ဖြစ်ပွားခဲ့ပေသည်။

ယခုခေတ် စစ်သင်္ဘောကြီးများတွင် သံမဏိသံချပ်ကာများကို ရေအောက်သို့ ငါးပေလောက်ရောက်အောင်အထိ ကာရံ တပ်ဆင်ထားတတ်ကြသည်။ သင်္ဘောအလယ်ပိုင်းတွင် သံချပ်ကာများသည် ၁၂ လက်မမှ ၁၈ လက်မ အထိ ထူတတ်၍ ဦးနှင့် ပဲ့ပိုင်းတွင် အနည်းငယ် ပါးတတ်သည်။ သင်္ဘောဝမ်းတွင်း၌လည်း သံမဏိသံချပ်ကာများဖြင့် ကန့်လန့်ဖြတ်၍ ကာရံ တပ်ဆင်ထားလေ့ရှိရာ သင်္ဘောသားများ အခန်း၊ စက်ခန်းနှင့် ခဲယမ်းမီးကျောက်များ ထားရာ အခန်းများသည် သံချပ်ကာ သေတ္တာထဲတွင် ထည့်ထားသည်နှင့် မခြား အလွန်ပင် လုံခြုံလှပေသည်။ နောက်ဆုံးပေါ် စစ်သင်္ဘောကြီး အချို့တွင် တပ်ဆင်ထားသော သံချပ်ကာများမှာ နှစ်ပေအထိပင် ထူသည်ဟု သိရလေသည်။

စစ်သင်္ဘောများတွင် ရှိသော အမြောက်စင်များကိုလည်း အထူးကာကွယ်ရန် အရေးကြီးသည့်အတိုင်း အထူဆုံး သံချပ်ကာများဖြင့် ကာကွယ်ထားတတ်သည်။ ရေတပ်ဆိုင်ရာ စစ်သင်္ဘောနှင့် အမြောက်စင်များတွင်သာ မဟုတ်၊ ကြည်းတပ်များတွင် အသုံးပြုကြသည့် အမြောက်ကျည်ကာ အမြောက်စင်နှင့်တကွ သံချပ်ကာ မော်တော်ကား၊ သံချပ်ကာ မီးရထား၊ သံချပ်ကာ တင့်ကားများ၌လည်း ယခုအခါ သံချပ်ကာများကို အကျိုးရှိစွာ အန္တအပြားအသုံးပြုလျက် ရှိကြ၏။ သို့သော် ဤသံချပ်ကာများမှာ စစ်သင်္ဘောတွင် အသုံးပြုသော သံချပ်ကာမျိုးလောက် မထူကြချေ။

လက်နက်နှင့် တိုက်ခိုက်နည်းများ တိုးတက်ပြောင်းလဲလာခြင်းကြောင့် စစ်သင်္ဘောကုန်းပတ်များကိုလည်း တမျိုးတမည် ပုံပြင် ပြောင်းလဲ ပေးခဲ့ရသည်။ ရှေးက စစ်သင်္ဘောများတွင် အပေါ်ဖက်မှ ကျရောက်သည့် ဘေးအန္တရာယ်များ နည်းပါးခဲ့သည်။ ထိုကြောင့် ကုန်းပတ်များကို သံချပ်ကာ အပါးစားနှင့်ပင် ဆောက်လုပ်ခဲ့ကြ၏။ သို့သော် ပြီးခဲ့သော ပဌမကမ္ဘာစစ်ပွဲမှစ၍ အဝေးမှပစ်ခတ်၍ သော်၎င်း၊ လေယာဉ်ပျံများဖြင့် တိုက်ခိုက်ခြင်းကြောင့် သော်၎င်း သင်္ဘောကုန်းပတ်များကို မကြာခဏ ထိမှန်နိုင်သည့်အတွက် ယခုခေတ် စစ်သင်္ဘောများတွင် သင်္ဘောကုန်းပတ်ကို ခံနိုင်ရည်ရှိသည့် သံချပ်ကာ အထူစားများဖြင့် ဆောက်လုပ် ထားကြရလေသည်။

**သံဃာ**။ ။သံဃာ ဆိုသည်မှာ အယူသီလ တူမျှသော ပုဂ္ဂိုလ်အပေါင်းအစုကို ဆိုသည်။ ယင်း သံဃာသည်လည်း

(၁) ဒက္ခိဏေယျ သံဃာ

(၂) သမ္မုတိ သံဃာ

ဟူ၍ နှစ်မျိုးရှိသည်။ ယင်းနှစ်မျိုးတို့တွင် သောတာပတ္တိမဂ်ပုဂ္ဂိုလ်၊ သောတာပတ္တိဖိုလ်ပုဂ္ဂိုလ် တစုံ၊ သကဒါဂါမိမဂ်ပုဂ္ဂိုလ်၊ သကဒါဂါမိဖိုလ်ပုဂ္ဂိုလ် တစုံ၊ အနာဂါမိမဂ်ပုဂ္ဂိုလ်၊ အနာဂါမိဖိုလ်ပုဂ္ဂိုလ်တစုံ၊ အရဟတ္တမဂ်ပုဂ္ဂိုလ်၊ အရဟတ္တဖိုလ်ပုဂ္ဂိုလ် တစုံ၊ ဤသို့ အစုံအားဖြင့် လေးစုံ၊ အရေအတွက်အားဖြင့် ရှစ်ပါးသော အရိယာပုဂ္ဂိုလ် အပေါင်းအစုကား ဒက္ခိဏေယျသံဃာ ဖြစ်သည်။

အရိယသံဃာ၏ အနွယ်အဆက်ဖြစ်၍ ဉာတ်တကြိမ်ကမ္မဝါသုံးကြိမ် ဉာတ္တိစတုတ္ထကံဖြင့်ရဟန်းဖြစ်၍နေကြသော ရဟန်းအပေါင်းအစုကား သမ္မုတိသံဃာ ဖြစ်သည်။

ယင်း သမ္မုတိ သံဃာသည်လည်း ဝိနည်းဒေသနာတော်အရ ပြုလုပ်ဆောင်ရွက်ရသော ဝိနည်းကံ၏ အစွမ်းအားဖြင့်

| | | | |
|---|---|---|---|
| (၁) | စတုဝဂ် သံဃာ | = | လေးပါးစု သံဃာ၊ |
| (၂) | ပဉ္စဝဂ် သံဃာ | = | ငါးပါးစု သံဃာ၊ |
| (၃) | ဒသဝဂ် သံဃာ | = | ဆယ်ပါးစု သံဃာ၊ |
| (၄) | ဝီသတိဝဂ် သံဃာ | = | နှစ်ဆယ်စု သံဃာ၊ |
| (၅) | အတိရေက ဝီသတိဝဂ် သံဃာ | = | နှစ်ဆယ်ထက်ပိုလွန်သောအများစု သံဃာ |

ဟူ၍ ငါးပါး ရှိသည်။ ဤ လေးပါးစုစသော သံဃာသည် မိမိတို့နှင့် သက်ဆိုင်ရာ ဝိနည်းကံများကို ပြုလုပ်ဆောင်ရွက်ရသည်။

**သံဃဂုဏ်တော် ကိုးပါး**

(၁) အဓိသီလ၊ အဓိစိတ္တ၊ အဓိပညာ သိက္ခာသုံးပါးကို ကောင်းစွာ ကျင့်ခြင်း၊

(၂) အဓိသီလ၊ အဓိစိတ္တ၊ အဓိပညာ သိက္ခာသုံးပါးကို ဖြောင့်မတ်စွာ ကျင့်ခြင်း၊

(၃) အဓိသီလ၊ အဓိစိတ္တ၊ အဓိပညာ သိက္ခာသုံးပါးကို သင့်လျော်စွာ ကျင့်ခြင်း၊

(၄) အဓိသီလ၊ အဓိစိတ္တ၊ အဓိပညာ သိက္ခာသုံးပါးကို ရိုသေစွာ ကျင့်ခြင်း၊

(၅) ဧည့်သည်အတွက် ထားသော အလှူဝတ္ထုကို ခံယူထိုက်ခြင်း၊

(၆) လက်ဆောင်အတွက် ထားသော အလှူဝတ္ထုကို ခံယူထိုက်ခြင်း၊

(၇) တမလွန်ကျိုးအတွက် ပြုအပ်သော မြတ်သော အလှူဝတ္ထုကို ခံယူထိုက်ခြင်း၊

(၈) လူမင်း၊ နတ်မင်း၊ ဗြဟ္မာမင်းတို့ လက်အုပ် ချီမိုးရှိခိုးခြင်းကို ခံယူထိုက်ခြင်း၊

(၉) အတုမရှိ မြတ်သော ကောင်းမှု၏ စိုက်ပျိုးရာ လယ်ယာမြေကောင်းသဖွယ် ဖြစ်ခြင်း

ဟူ၍ သံဃဂုဏ်တော် ကိုးပါး ရှိလေသည်။ **ဦးကြီးဖေ**

**သံတမန်**။ ။သံတမန်ဟူသည် တိုင်းပြည် တပြည်နှင့် တပြည်၊ မင်းတဦးနှင့်တဦး၊ လူတယောက်နှင့်တယောက် အကြား သွားလာဆက်သွယ်သူ ဖြစ်သည်။ ထိုသံတမန်ကို

ဝိနည်း ပါရာဇိကဏ် ပါဠိတော် သဉ္စရိတ္တ သိက္ခာပုဒ်၌ အောင်တမန်ဟု သုံးစွဲသည်။ ယောကျ်ား မိန်းမတို့အကြား လင်မယား ဖြစ်စေရန် သွားလာသူ အောင်သွယ်ဖြစ်သည်။ ဥပရိပဏ္ဏာသ ပါဠိတော်၌ နတ်တမန်၊ သေမင်းတမန်ဟု သုံးစွဲသည်။ (၁) ဇာတိ—ပဋိသန္ဓေ နေ၍ မွေးဖွားစ ဖြစ်သော သူငယ်၊ (၂) ဇရာ—ရင့်ရော် ကုန်းကွနေသော သူအို၊ (၃) ဗျာဓိ—သေလုမျော့ပါး ဖြစ်နေသော သူနာ၊ (၄) အာဝုဓ—မင်းဒဏ် သင့်သူကို ညှဥ်းဆဲသတ်ဖြတ်နေသော လက်နက်၊ (၅) မရဏ—ဖူးရောင် ပုပ်ပွနေသော သူသေ ဟူ၍ ငါးပါးဖြစ်သည်။ ပိဋကတ်တော် အခြားနေရာတို့၌ တမန်ဟု သုံးစွဲသည်။ ပျို့၊ ကဗျာ၊ လင်္ကာ၊ မော်ကွန်း၊ ရာဇဝင် စာဟောင်း စာတမ်းတို့၌ကား ထိုသံတမန်ကို တမန်ဟူ၍၎င်း၊ တံဆေးဟူ၍၎င်း၊ သံ့သေးဟူ၍၎င်း၊ သံဟူ၍၎င်း၊ မင်းစေဟူ၍၎င်း ငါးပါးခွဲ၍ သုံးစွဲကြသည်။ ထိုငါးပါးတို့တွင် အရှင်မှာတိုင်း ဆိုသူကို တမန်၊ မင်းနှစ်ပါး သင့်အောင်ဆိုသူကို တံဆေး၊ သူ့စကားကို ထောက်၍ ယုတ်လွန်မရှိ ဆိုသူကို သံ့သေး၊ လိုသည်ကို တောင်းလာသူကို သံ၊ မှာတိုင်းဆို၍ စေဖက်ရမှ သွားသူကို မင်းစေဟု ခေါ်သည်။

ထိုသံတမန်ကား (၁) မန္တိနီ—မင်းတိုင်ပင် အမတ်၊ (၂) သေနာနီ—ဗိုလ်မှူး အမတ်၊ (၃) အက္ခဒဿ—တရားဆုံးဖြတ်သော အမတ်၊ (၄) ဒေါဝါရိကော—တံခါးမှူး အမတ်၊ (၅) အနိကဋ္ဌေ—ကိုယ်ရံတော် အမတ်၊ (၆) မလ္လာကော—လက်ပန်းသည် အမတ် ( လက်ဝေအမတ် )၊ (၇) သေဝကော—မင်းခစားအမတ်၊ (၈) ဟေရညိကော—ရွှေငွေမှူး၌ စီကိုင်ပွဲစား အမတ်၊ (၉) အဓိကကော—တရွာ၌ ကြီးကဲသော အမတ် (သူကြီး—ကလန်အမတ်)၊ (၁၀) ဂေါပေါ—ရွာအများ၌ ကြီးကဲသောအမတ်(တိုက်သူကြီး—သံပျင်အမတ်)၊ (၁၁) စရော—သူလျှိုအမတ်၊ (၁၂) ဒူတော—သံတမန်အမတ်၊ (၁၃) ဂဏကော—ဂဏန်းဟူးရားတတ် အမတ်၊ (၁၄) လေခကော—စာရေးစာချီ အမတ် ဟူ၍ ၁၄ ပါးတွင် တပါးအပါအဝင် ဖြစ်သည်။

ထိုသံတမန်မှာ တိုင်းပြည်၏ကိုယ်စား တိုင်းတပါးသို့ စေလွှတ်ရသော ပုဂ္ဂိုလ်၊ ခန့်ထားရသော ပုဂ္ဂိုလ်ဖြစ်၍ အောက်ပါ အင်္ဂါတို့နှင့် ပြည့်စုံသူ ဖြစ်ရသည်။ သို့မှ တိုင်းကျိုး ပြည်ကျိုးကို ဆောင်ရွက်နိုင်မည်။ သံတမန် အင်္ဂါကိုလည်း အမျိုးမျိုး ပြဆိုကြသည်။

ရာဇနီတိ၌ သံတမန် အင်္ဂါ ခြောက်ပါးကား— (၁) ပညဝါ—ဥာဏ်ပညာရှိခြင်း၊ (၂) ဝါကျဆေက—စကားတတ်ခြင်း၊ စကားပြော လိမ်မာခြင်း၊ (၃) သူရ—ရဲစွမ်းသတ္တိရှိခြင်း၊ (၄) ပရစိတ္တဇာနန—သူတပါး၏ စိတ်နေစိတ်ထားကို သိခြင်း၊ (၅) ဒန္တ—ယဉ်ကျေး သိမ်မွေ့ခြင်း၊ (၆) ပဋိဝါကျ—သူတပါး တင်ဆိုသော စကားကို ပြန်လည် ချေပနိုင်ခြင်း ဖြစ်သည်။

တနည်း သုဿောဓိတ မဟာရာဇဝင်ကြီး တတိယတွဲ၌— သံတမန်အင်္ဂါ ခုနစ်ပါးကား—(၁) အမျိုးမြတ်ခြင်း၊ (၂) တတ်သိလိမ်မာခြင်း၊(၃) တည်ကြည်ခြင်း၊ (၄) ရဲရင့်ခြင်း၊ (၅) အရိပ်အခြည်သိခြင်း၊ (၆) စည်းစိမ်ချမ်းသာရှိခြင်း၊ (၇) တော်မှန်ခြင်း ဖြစ်သည်။

(အင်္ဂါရှစ်ပါးဆိုသော်လည်း ခုနစ်ပါးသာ ရှိသည်။)

တနည်း အင်္ဂုတ္တရ ပါဠိတော် စသည်တို့၌ သံတမန် အင်္ဂါရှစ်ပါးကား (၁) သောတာ—မှာကြားလိုက်သော စကားကို နားလည်ခြင်း၊ (၂) သာဝေတာ—မှာကြားလိုက်သော အတိုင်း ပြောဆိုနိုင်ခြင်း၊ (၃) ဥဂ္ဂဟေတာ—မမေ့မလျော့အောင် မှတ်သားထားနိုင်ခြင်း၊ (၄) ဓာရေတာ—မချွတ်မယွင်းအောင် ဆောင်နိုင်ခြင်း၊ (၅) ဝိညာတာ—စကားရှိတိုင်း အနက်အဓိပ္ပါယ်ကို သိနားလည်ခြင်း၊ (၆) ဝိညာပေတာ—သူတပါး နားလည်အောင် ပြောဆိုတတ်ခြင်း၊ (၇) သဟိတာသဟိတကုသလာ— အကျိုးရှိသည် မရှိသည်၌ တတ်သိလိမ္မာခြင်း၊(၈)နောစကလဟကာရက—ငြင်းခုန် ခိုက်ရန်မဖြစ်အောင် ဆောင်ရွက်နိုင်ခြင်း ဖြစ်သည်။

တိုင်းတပါးသို့ စေလွှတ်ခန့်ထားသည့် သံတမန်ကား အလွန် အရေးကြီးသည်။ အထက်ပါ အင်္ဂါရပ်တို့နှင့် ပြည့်စုံလုံလောက်သော ပုဂ္ဂိုလ်တို့ကိုသာ စေလွှတ်ခန့်ထားရသည်။ ထိုသို့ စေလွှတ်ခန့်ထားရာ၌လည်း ပုဂ္ဂိုလ် သံတမန်ကြီး၊ သံတမန်လတ်၊ သံတမန်ငယ်ဟု သုံးစားရှိသည်။ တိုင်းပြည်ဖက်က ကြည့်ပြန်လျှင်လည်း တိုင်းပြည်ကြီး၊ တိုင်းပြည်လတ်၊ တိုင်းပြည်ငယ်ဟု သုံးစားရှိပြန်သည်။ ထိုသို့ရှိရာ သံတမန်နှင့် တိုင်းပြည် လိုက်လျောအောင် တိုင်းပြည်ကြီးသို့ သံတမန်ကြီး၊ တိုင်းပြည်လတ်သို့ သံတမန်လတ်၊ တိုင်းပြည်ငယ်သို့ သံတမန်ငယ်ကို စေလွှတ်ခန့်ထားရသည်။

ထိုထိုနိပါတ်တော်၊ ရာဇဝင်၊ သာသနာဝင်၊ နီတိစသော စာအုပ်စာတမ်းတို့၌ သံတမန် စေလွှတ်ခြင်း ခန့်ထားခြင်းနှင့် စပ်လျဉ်းသော အကြောင်းအရာတို့ကို တွေ့မြင်ရသဖြင့် သံတမန် စေလွှတ်ခြင်း ခန့်ထားခြင်း အလေ့အထမှာ ရှေးရှေးအခါကပင် ရှိခဲ့ကြောင်း ထင်ရှားသည်။ ယခုအခါလည်း ကမ္ဘာပေါ်ရှိ တိုင်းပြည် အသီးအသီးတို့သည် တိုင်းပြည်တခုနှင့် တိုင်းပြည်တခု မဟာမိတ်ဖြစ်၍ အဆက်အသွယ်ကောင်းရန် သံတမန် အလဲအလှယ်ပြုကာ တိုင်းပြည်တခုက တိုင်းပြည်တခုသို့ သံတမန် စေလွှတ် ခန့်ထားကြသည်။

ပြည်ပိုင်အစိုးရသည် သံတမန်တို့ကို နှိပ်စက်ညှဥ်းပန်းခြင်း သတ်ဖြတ်ခြင်းကို မပြုရ။ ပြေပြေပြစ်ပြစ် ဆက်ဆံရသည်။ တပြည်နှင့်တပြည် ချစ်ကြည်အေးချမ်းနေသော အခါ၌ ထားဘိဦး၊ စစ်ဖြစ်နေသောအခါ၊ စစ်တိုက်နေဆဲ



ကုန်းဘောင်မင်းများ လက်ထက်တွင် တိုင်းတပါးနှင့် ချစ်ကြည်ရင်းနှီးစွာ ဆက်ဆံနိုင်ရန် ကြိုးပမ်းခဲ့ရာ ဤပုံမှာ အင်္ဂလိပ်မြန်မာ ဆက်ဆံရေး ပြေပြစ်မှုအတွက် နောက်ဆုံး ကြိုးပမ်းခဲ့သော မြန်မာသံအဖွဲ့ဝင်များ ဖြစ်၏။

အခါ ဖြစ်သော်လည်း တပြည်မှတပြည်သို့ စေလွှတ်သော သံတမန်၊ စစ်တပ်တခုမှ စစ်တပ်တခုသို့ စေလွှတ်သော သံတမန်တို့ကို နှိပ်စက်ညှဉ်းပန်းခြင်း သတ်ဖြတ်ခြင်းကို မပြုရ။ ပြေပြေပြစ်ပြစ် ဆက်ဆံရသည်။

သက္ကရာဇ် ၆၁၇ ခု နန်းတက်သော ပုဂံပြည် နရသီဟပတေ့မင်း လက်ထက် ၆၄၃ ခုတွင် တရုပ်ပြည် ဥတည်ဘွားက ရွှေထမင်းအိုး၊ ငွေထမင်းအိုး၊ ရွှေပေါင်းချောင်၊ ငွေပေါင်းချောင်၊ ရွှေယောက်မ၊ ငွေယောက်မ၊ ရွှေဟင်းချို၊ ငွေဟင်းချို၊ နေ်ရထာမင်း လက်ထက်က ဆက်ဖူးသည်ဟူ၍ အမတ်တကျိပ်နှင့် မြင်းသည်တထောင်တို့ကို စေလွှတ်၍ တောင်းလာသည်။ တရုပ်သံတို့သည် မင်းကြီးရွှေတော်တွင် မတော်မလျော် မကျစ်မလျစ် ပြုချေ၏။ အမတ်

တကျိပ်နှင့် မြင်းသည်တထောင်တို့ကို တယောက်မလွတ် သတ်စေဟု အမိန့်တော်ရှိသည်။

ထိုအခါ အနန္တပစ္စည်း အမတ်သည် ဘုန်းတော်ကြီးသော ဘုရား–တရုပ်ဥတည်ဘွား သံတို့သည် ရာဇဝင်၌ မလိမ္မာ၍ မချေမင ကျင့်မိသော်လည်း မှတ်သား၍ ဥတည်ဘွားသို့ စေတော်မူလျှင်လည်း စေတော်မူရမည်။ သည်းခံတော်မူ၍ ပြည်ရေး ရွာမှု ပြေလည်အောင် မိန့်တော်မူသင့်လျှင်လည်း မိန့်တော်မူရမည်။ မင်းအဆက်ဆက်တို့သည် သံတမန်ကို သတ်သော ထုံးစံမရှိ။ သည်းခံမှ သင့်မည်ဟု လျှောက်သည်။ မင်းကြီးလည်း ငါကဲ့သို့သော မင်းကို မခန့်မရည် ကျင့်သည် သတ်လေဟု မိန့်တော်မူ၏။ အမတ်တို့လည်း မင်းကြီးအာဏာကို ကြောက်သဖြင့် တယောက်မလွတ် သတ်လေ၏။

ထိုအကြောင်းကို ဥတည်ဘွားကြားလျှင် ပြင်းစွာ အမျက်ထွက်၍ စစ်သည်ဗိုလ်ပါ မြောက်မြားစွာ စီရင်၍ ချီလာလျှင် အမျိုးမျိုး တိုက်ခိုက်ခုခံပါသော်လည်း မခံနိုင်သည်တွင် မင်းကြီးလည်း ပုသိမ်သို့ ပြေးရ၏။ နောက်အခါ မင်းနှင့်တကွ တိုင်းပြည်လည်း ပျက်စီးရ၏။ မင်းလည်း ရာဇဝင်တွင် တရုပ်ပြေးမင်းဟု တွင်ရစ်သည်။ (ဤကား သံတမန်ကို သတ်မိ၍ ပျက်စီးသော ထုံးတည်း။) (နရသီဟပတေ့မင်း — လည်းရှု။)

ထိုပြင် သံတမန်နှင့် စပ်လျဉ်း၍ ဗဟုသုတ တိုးပွားစေရန် သုသောမိတ မဟာရာဇဝင်ကြီး တတိယတွဲ–ရာဇသန် စေလွှတ်သည့် စာများအကြောင်းမှ ထုတ်နုတ်ပြဆိုပါအံ့။

တရံရောအခါ အဒိဋ္ဌ သဟာယဖြစ်သော သီဟိုဠ်မင်းက ဟံသာဝတီပြည် ဓမ္မစေတီမင်း၏ အမြော်အမြင် ပညာကို စုံစမ်းလိုသဖြင့် ကြီးစွာသော တံတင်း(သေတ္တာ)၌ လောင်စာအပြည့် ထည့်၍ ဖွင့်သောအဝ၌ သော့ကျင်ကို ထိကာမျှဖြင့် မီးလျှံဖြစ်လာအောင် ကျောက်နှင့်သံကို စီရင်ပြီးမှ ရာဇသန် ရွှေပေတွင်(ကရောဘ–စောလ–ရောင်းက)စကားသုံးခွန်းကို ရေး၍ ဓမ္မစေတီမင်းအား ဆက်သစေ၏။

ဓမ္မစေတီမင်းလည်း အမှာစာနှင့် လက်ဆောင်တံတင်းကို မြင်လျှင် မသက်မသာရှိလျက် ဆယ်ရက်၊ လခွဲ နှိုက်နှဲ တွေးယူ ကြံတော်မူပြီးမှ စကားရကို ကျနတော်မူ၏။ စကားသုံးခွန်းတွင်(ကရောဘ)ကား ဖဦးထုပ် နောက်ဆုတ် ဆိုလိုသည် ဖြစ်သောကြောင့် (ပ) စောက်အက္ခရာ၊ (စောလ) ကား မြေးအဖိုး ဆိုလိုသည်ဖြစ်သောကြောင့်(လ)အက္ခရာ။ (ရောင်းက)ငါးမျှော်သည် ဆိုလိုသောကြောင့် ငါးမျှော်သော သတ္တဝါကား ဥဗျိုင်းဖြစ်၏။ ဥဗျိုင်းကို (ပေါက်) ခေါ်သောကြောင့် သုံးလုံးပေါင်းလျှင် (ပ–လ–ပေါက်) ဖြစ်၏။ မြန်မာလို မဖွင့်နှင့် ဆိုသည်။ ထိုကြောင့် ထိုတံတင်းကို မြင်းနှင့်တင်ကာ မြို့ပြင်သို့ အမြန်ထုတ်၍ သော့ကျင်ကို နှက်စေရာ၊ မီးတောက်၍ လောင်ကျွမ်းသဖြင့် အံ့ဖွယ်သရဲဖြစ်လေသည်။ (ဤကား စကားဝှက်ရေး၍ လက်ဆောင်ဖြင့် ပညာစမ်းခြင်းတည်း။)

တရံရောအခါ ရခိုင်မင်းက လက်ဆောင်ပဏ္ဏာ များစွာနှင့် ပတ္တမြားကျည်တောက် တခုတွင် မြေမှုန့်၊ တခုတွင် ထုံးမှုန့်ထည့်၍ အင်းဝမင်းခေါင်အား ရွှေနန်းတော်သို့ တက်၍ မတ်တပ် ဆက်သရ၏။ အင်းဝမင်းခေါင်လည်း ပတ္တမြား ကျည်တောက်တွင် မြေမှုန့်နှင့် ထုံးမှုန့်ကို မြင်သော် အံ့ဖွယ်သရဲ ဖြစ်လျက် မြေကြီးအထုနှင့် တူသော ဗိုလ်ပါ အများနှင့် ငါချီလာရက၊ အင်းဝပြည်သည် ထုံးမှုန့်နှင့်အတူ မကြေလောဟု ယူဆကာ၊ မရွှင်သော မျက်နှာဖြင့် အဆောတလျှင် အဆောင်တော်သို့ ဝင်သည်ကို နားတောင်းများဟူသော အမတ်ပညာရှိ သိမှ အတွင်းတော်သို့ ဝင်၍ အရှင်၏ အချစ်တော် ရခိုင်မင်းက မြေမှုန့်လက်ဆောင် ဆက်သရာမှာ(ကျွန်ုပ်ကို သူကောင်းမှတ်လျှင် မြေခြားကို မှတ်ပါ)ဟု လျှောက်လိုသည်။ ထုံးမှုန့်လက်ဆောင် ဆက်သရာမှာ(အဖိုးအခွန်တော်မှာ ရှေးထုံးအတိုင်းဆက်သပါမည်)ဟု လျှောက်လိုသည်ဟု ကြားလျှောက်မှ စိတ်တော်ပြေ၍ သို့ဖြစ်လျှင် မြေခြားကို မှတ်သားလေ။ ရှေးထုံး အစဉ်အလာ ရှိသည့်အတိုင်းလည်း အဖိုးအခွန် ဆက်ရောက်စေဟူ၍ ရခိုင်သို့ စေရပြန်သည်။ (ဤလည်း စကားဝှက်ရေး၍ လက်ဆောင်ဖြင့် ကျွန်ခံမြဲ ခံခြင်းတည်း။)

ယိုးဒယားမင်းနှင့် ဇင်းမယ်မင်းတို့သည် မိတ်ဖွဲ့ကြလျက် စစ်မက် မထိုးကြပဲ၊ ခံခက်သည့်အရာ ပြဿနာ အမေးအထွေထွေကို စီရင်စေ၍ မဖြေနိုင်လျှင် ရွှေပိသာ တရာ၊ ငွေပိသာ တရာ၊ ဆင်ပေါက်တစီး ဆက်ရမည်ဟု ကတိထားကာ၊ ယိုးဒယားမင်းက ဇင်းမယ်မင်းသို့(စွတ်၏၊ နစ်၏၊ ပစ်၏)ဟူသော ပြဿနာ သုံးထွေကို ရွှေပေရာဇသန်တွင် စီမံရေးသားစေပြီးလျှင် အထွေထွေသော လက်ဆောင်ပဏ္ဏာနှင့် ဇင်းမယ်မင်းသို့ ပို့ရ၏။

ဇင်းမယ်မင်းလည်း ပြဿနာသုံးထွေကို ရဟန်းပညာရှိတို့နှင့် တိုင်ပင်ဆွေးနွေး၍၊ (စွတ်၏) ဟူသောစကားသည် ဘုရားလောင်း တေမိမင်းသားကို ဖွားမြင်သောအခါ မိုးကြီးစွာရွာသဖြင့် လူအပေါင်းကို စွတ်စိုစေသောကြောင့် (စွတ်၏) ဟု ဆိုလိုသည်။ (နစ်၏) ဟူသော စကားသည် ဘုရားလောင်း မဟာဇနကမင်းသားသည် သမုဒ္ဒရာ အလယ်တွင် သင်္ဘောပျက်သောအခါ ရေတွင်နစ်သောကြောင့် (နစ်၏) ဟု ဆိုလိုသည်။ (ပစ်၏) ဟူသော စကားသည် ဘုရားလောင်း သုဝဏ္ဏသျှံကို ပီဠိယက္ခမင်းကြီးက လေးနှင့်ပစ်သောကြောင့် (ပစ်၏) ဟု ဆိုလိုသည်။ ဤသို့ ပြဿနာသုံးထွေကို ဖြေကြား၍ ရွှေပေတွင် ရေးပြီးလျှင် လက်ဆောင်ပဏ္ဏာနှင့်တကွ ယိုးဒယားသို့ ပို့ရ

သည်။ (ဤကား အလောင်းအစားပြု၍ စကားဝှက်ကာ မေးသောပြဿနာကို ဖြေစေခြင်းတည်း။)

တဖန် ဇင်းမယ်မင်းက ယိုးဒယားမင်းသို့ (အဌ မေကိဒိသော စန္ဒော၊ ဒုဋ္ဌကုတ္ထိ ကိ ကရေယျ၊ သဗ္ဗတ္ထပူဇိတော ကောန–ရှစ်ရက်မြောက်သောနေ့၌ လသည်အဘယ်သို့ သဏ္ဌာန်ရှိသနည်း။ ယုတ်မာပျက်စီးသော မိန်းမကို အဘယ်သို့ ပြုရမည်နည်း။ အလုံးစုံသော အရပ်၌ ပူဇော်အပ်သောသူကား အဘယ်သူနည်း။)ဟု အမေးပြဿနာသုံးချက်ကို ရှစ်လုံးဖွဲ့ဂါထာ သုံးပါဒ စီကုံး၍ ရွှေပေတွင်ရေးပြီးလျှင် လက်ဆောင်ပဏ္ဏာနှင့်တကွ ပို့ပြန်၏။

ယိုးဒယားမင်းလည်း ပြဿနာသုံးချက်ကို တိုင်ပင်နှီးနှော၍(အစုဇဟေယျ ပဏ္ဏိတော–ရှစ်ရက်မြောက်သောနေ့၌ လသည် တခြမ်းသဏ္ဌာန်ရှိ၏။ ယုတ်မာပျက်စီးသော မိန်းမကို စွန့်ပစ်ရာ၏။ အလုံးစုံသောအရပ်၌ ပူဇော်အပ်သောသူကား ပညာရှိတည်း။)ဟု ရှစ်လုံးဖွဲ့ဂါထာ သုံးပါဒဖြင့် မေးသောပြဿနာသုံးချက် တပါဒတည်းဖြင့် စီကုံးဖြေဆိုကာ ရွှေပေတွင်ရေးပြီးလျှင် လက်ဆောင်ပဏ္ဏာနှင့်တကွ ဇင်းမယ်မင်းသို့ ပို့ပြန်၏။ (ဤလည်း စကားဝှက်ကာ မေးသောပြဿနာကို ဖြေစေခြင်းတည်း။)

နောက်ထပ်တဖန် ယိုးဒယားမင်းက ဇင်းမယ်မင်းသို့ ရာဇသန်ရွှေပေတွင်ရေး၍ လက်ဆောင်ပဏ္ဏာနှင့် တကွ (သစ္စေးကျည်တောက်၊ ပြာမှုန့်၊ လိပ်ခွံ၊ စူးယ်၊ ကရားငယ်) ဤငါးမျိုးကို အနားရေးတရာရှိသော မုနောလင်ပန်း၌ထည့်၍ ပို့ပြန်၏။

ဇင်းမယ်မင်းလည်း မှာစာကိုကြား၍ လက်ဆောင်တို့ကိုမြင်သော် အလွန်စိုးရိမ်သဖြင့် ရဟန်းပညာရှိ လူပညာရှိတို့နှင့် တိုင်ပင်နှီးနှောသောအခါ ယွန်းတို့အလို သစ္စေးကျည်တောက်ကို (ရက်) ခေါ်သည်။ ပြာမှုန့်ကို (တော်) ခေါ်သည်။ လိပ်ခွံကို (တော) ခေါ်သည်။ စူးယ်ကို (စီ) ခေါ်သည်။ ကရားငယ်ကို (ဝိတ်) ခေါ်သည်။ အက္ခရာငါးလုံးပေါင်းသော် (ရက်–တော်–တော–စီ–ဝိတ်) ဖြစ်၏။ (အသက်ထက်ဆုံးချစ်ကြည်ရမည်) ဆိုလိုသည်ဟူ၍ ရာဇသန် ရွှေပေတွင် ရေးပြီးလျှင် ရှေးကထက်မြင့်မောက်သော လက်ဆောင်ပဏ္ဏာနှင့်တကွ ယိုးဒယားမင်းသို့ ပို့ပြန်၏။ (ဤကား လက်ဆောင်ပစ္စည်းတို့ကို စကားဝှက်ပြုလုပ်၍ မိတ်ဆက်ပြန်ခြင်းတည်း။)

နောက်ထပ်တဖန် ဇင်းမယ်မင်းက ယိုးဒယားမင်းသို့ (မြတ်သော ပတ်ယပ်လက္ခဏာယတယာရသော ဆင်ဖြူရတနာကို ဥဗျိုင်းမငယ်တခုသည် ချီဆောင်နှော၍ ကျူတောဝယ်ချလေသောကြောင့် ဗျာပါသောက ရှိရချေသည်။)ဟူသော မှာစာကို ရွှေပေတွင်ရေး၍ လက်ဆောင်ပဏ္ဏာနှင့်တကွ ပို့စေပြန်သည်။

ယိုးဒယားမင်းသည် ပညာရှိအပေါင်းနှင့် တိုင်ပင်ဆွေးနွေးပြီးမှ (မြတ်သောပတ်ယပ်လက္ခဏာယတယာရသော ဆင်ဖြူရတနာနှင့်တူသော ဆရာကြီးကို ဥဗျိုင်းမငယ်နှင့်တူသော မိန်းမပျိုသည် ဖျက်ဆီးမည်ကြံ၍ ကျူမြီးလျှံနှင့်တူသော ရာဂတော၌ ချလေသောကြောင့် စိုးနှောင့်ဗျာပါပူဆာသောက ရှိရသည်။) ဖြေဆိုပြီးမှ ရွှေပေတွင်ရေး၍ ဇင်းမယ်မင်းသို့ ပို့စေပြန်၏။ (ဤကား စကားဝှက်ဖြင့်မေး၍ ဖြေခြင်းတည်း။)

တရံရောအခါ ဇင်းမယ်နှင့် ယိုးဒယားသို့ စီးသွားသော မဲပိန်မြစ်တွင် ငါးကြီးတကောင်ကို တံငါတို့ရသဖြင့် ထူးခြားလှသောငါးဖြစ်သောကြောင့် ပြည်စိုးမြို့ကွပ်သို့ ဆက်လေ၏။ ထိုမှတဖန် အဆင့်ဆင့်အားဖြင့် ယိုးဒယားဘုရင်သို့ ရောက်၍ ထိုငါးကြီးကို ဖျက်ဆီး၍ကြည့်သောအခါ ဦးခေါင်းခွံထဲ၌ (ဒ–ဘ–အ–တ) အက္ခရာလေးလုံးကို တွေ့ရသဖြင့် ရဟန်းပညာရှိတို့နှင့် ဆွေးနွေးစိစစ်ပြီးလျှင် —

ဒသလက္ခာဇ ရဌ္ဌ၊
ဘယံ စောရဒုဗ္ဘိက္ခကံ။
အညမညံ ဃဋ္ဋေဃာတ္တိ၊
တဒါ သုညံ နဝပုရံ။

ဟူ၍ အက္ခရာတလုံးတပါဒစီဂါထာဖြစ်အောင် စီရင်၏။ အဓိပ္ပါယ်ကား (ဆင်တသိန်းရှင် စီရင်အုပ်ချုပ်သော ဇင်းမယ်ပြည်သည် သူခိုး ဓားပြဘေး၊ ငတ်မွတ်ခေါင်းပါးသောဘေးနှစ်ပါးကြောင့် အချင်းချင်း ညှဉ်းဆဲသတ်ဖြတ်ကြကုန်လတ္တံ့၊ ထိုအခါ အသစ်တည်ထောင်ထားသဖြင့် နဝပုရမည်သော ဇင်းမယ်ပြည်သည် ပျက်စီးဆိတ်သုန်းမည်။) ဟု ရွှေပေတွင်ရေး၍ လက်ဆောင်ပဏ္ဏာနှင့်တကွ (ရာဇပုရိန္ဒ) မည်သော ယိုးဒယားအမတ်ကို စေလွှတ်၍ ဇင်းမယ်သို့ ပို့စေ၏။

ဇင်းမယ်ပြည်သို့ရောက်လျှင် ဇင်းမယ်ဘုရင်သည် ပညာရှိတို့နှင့် တိုင်ပင်နှီးနှော၍ ဤမြစ်ကား ယိုးဒယားနှင့် ဇင်းမယ်စီးသွားသည်မှန်၏။ သို့သော်လည်း ငါတို့ပြည်မှာ သည်ငါးကိုမရ၊ ယိုးဒယားမှာသာ သြဘာနိမိတ် အတိတ်ပြန်လို၍ရသည်ကို သူတို့က အလိမ္မာနှင့် ဇင်းမယ်ပြည်မှာသာဘေးဖြစ်လိမ့်မည်အဟန် ကြံဖန်ပြုသည်ဖြစ်သောကြောင့် ယင်း(ဒ–ဘ–အ–တ)အက္ခရာလေးလုံးကိုပင် —

ဒသဂဇ ကုလံ ရဋ္ဌံ၊
ဘယံ စောရ သတ္တန္တရံ။
အစိရေန ဝိနဿန္တိ၊
တဿာ ဒီပံ ကရော ဓိရော။

ဟု တဖန် ဂါထာဖွဲ့စီပြန်၏။ အဓိပ္ပါယ်ကား (ဆင်ဆယ်မျိုးအရှင် စီရင်အုပ်ချုပ်သော ယိုးဒယားပြည်သည် သူခိုးဓားပြဘေး၊ လက်နက်စွဲကိုင်ကာ ညှဉ်းဆဲ သတ်ဖြတ်

ခြင်းဘေးနှစ်ပါးကြောင့် မကြာမတင် ဆောဇျင်စွာပျက်စီးကုန်လတ္တံ့။ ထိုကြောင့် ပညာရှိသော ပြည်ကြီးရှင်သည် မှီခိုရာ ကိုင်းကျွန်းသဖွယ်ဖြစ်သော ရတနာသုံးပါးကို လျှုဒါန်း ပူဇော်ခြင်းကို ပြုရာ၏။) ဟု ရွှေပေတွင်ရေး၍ လက်ဆောင်ပဏ္ဏာနှင့်တကွ ယိုးဒယားပြည်သို့ ပြန်ပို့စေ၏။ (ဤကား တပြည်နှင့်တပြည် မိမိတို့ ထင်မြင်ယူဆချက်အတိုင်း ဂါထာစီကုံး၍၊ ရေးသားစေကြခြင်းဖြစ်သည်။ ထိုအတိုင်းပင် မကြာမီ နှစ်ပြည်ထောင်လုံး ဆင်ဖြူများရှင်လက်သို့ရောက်၍ ပျက်စီးကြရသည်။) (ဦးကြီးဖေ)

ယခုခေတ်၌လည်း သံတမန်သည် တနိုင်ငံနှင့်တနိုင်ငံ နိုင်ငံရေးအရသော်၎င်း၊ စီးပွားရေးအရသော်၎င်း ဆက်ဆံရာ၌ အလွန်အရေးကြီးလှပေသည်။ သံတမန်သည် အခြားအချုပ်အခြာ အာဏာပိုင် နိုင်ငံခြားတိုင်းပြည်တပြည်သို့ မိမိ၏ ပြည်ပိုင်အစိုးရကိုယ်စား တရားဝင်စေလွှတ်ခန့်အပ်ခြင်းခံရသော ပုဂ္ဂိုလ်ဖြစ်သည်။ နိုင်ငံတနိုင်ငံ၏ အစိုးရသည် အခြားတနိုင်ငံ၏အစိုးရနှင့် ဆက်သွယ်လိုသောဆန္ဒရှိပါက သံတမန်များမှတဆင့် ဆက်သွယ်လိုကြောင်း သဝဏ်လွှာကို ပို့ရမြဲဖြစ်သည်။ တနိုင်ငံနှင့်တနိုင်ငံ စစ်မက်အင်္ဂါဖြစ်ပွားပါက ဦးစွာ ပဌမ သံတမန်များကို မိမိတို့တိုင်းပြည်များသို့ ပြန်ခေါ်ရသည်။

သံတမန်၏တာဝန်ဝတ်တရားများကား ကြီးလေးလှပေသည်။ အမြော်အမြင်ကြီး၍ ပရိယာယ်ကြွယ်ဝပြီးလျှင် ဆက်ဆံမှု၌လည်း လိမ်မာရေးခြား ရှိရပေသည်။ သို့မှသာ နှစ်နိုင်ငံဆက်ဆံရေးသည် ပြေပြစ်ချောမော၍ ကြာရှည်ချစ်ကြည်လေးစားစွာ ပေါင်းသင်းသွားနိုင်လေသည်။ သံတမန်သည် တနိုင်ငံနှင့်တနိုင်ငံ စစ်မက်အင်္ဂါဖြစ်ပွားစေနိုင်သည့် အထင်မှားအမြင်မှားမှုမျိုး မရှိစေရန်ကိုလည်း အထူးသတိပြုရပေသည်။ အရေးကြီးသည့် တာဝန်တခုမှာ မိမိအား စေလွှတ်ထားရာနိုင်ငံ၏ လူထုသဘောထားကို လေ့လာစုံစမ်းပြီးလျှင် နိုင်ငံရေးအရ မည်သည့်အခြေအနေတွင်ရှိ၍၊ မည်သို့ တိုးတက်ပြောင်းလဲလျက်ရှိကြောင်းများကို မိမိ၏ အစိုးရထံသို့ အမြဲအစီရင်ခံရခြင်း ဖြစ်ပေသည်။

သံတမန်အဆင့်အတန်း အမျိုးမျိုးရှိ၏။ တိုင်းပြည်ကြီးတိုင်းတွင် သံအမတ်ကြီး၊ သို့မဟုတ် ပြည်တော်နေသံအမတ်များကို မိမိတို့၏ကိုယ်စား အခြားတိုင်းနိုင်ငံများ၏ နေပြည်တော်များ၌ စေလွှတ် ခန့်အပ်ထားကြသည်။ (သံအမတ်နှင့် ကောင်စစ်ဝန်—လည်းရှု။) တခါတရံ အထူးအာဏာကုန်လွှဲအပ်ခြင်းခံရသောသံအမတ်ကြီးများကိုစာချုပ်လက်မှတ်ရေးထိုးရန်အတွက်သော်၎င်း၊ နိုင်ငံရေးကိစ္စတခုခုဆွေးနွေးစေစပ်ရန်သော်၎င်း စေလွှတ်လေ့ရှိသည်။ ဤသံကြီး၊ သံလတ်၊ သံငယ်များအပြင် ထိုသံတမန်များကို ကူညီဆောင်ရွက်ရန် ပဌမအတွင်းဝန်၊ ဒုတိယအတွင်းဝန်၊ တတိယအတွင်းဝန် စသည်ဖြင့် အတွင်းဝန်အမျိုးမျိုးကိုလည်း စေလွှတ်ခန့်ထားသေးသည်။

**သံတော်ဆင့်။** ။ရှင်ဘုရင်တို့က ထုတ်သော အမိန့်တော်များ၊ လွှတ်တော်မှ ဘုရင့်ထံတင်သွင်းသော စာများကို တဆင့်ဖတ်ကြားခြင်း၊ တင်လျှောက်ခြင်း၊ ဆင့်ဆိုခြင်းပြုရသော ပုဂ္ဂိုလ်ကို သံတော်ဆင့်ဟု မြန်မာမင်းများလက်ထက်က ခေါ်တွင်သည်။ လွှတ်တော်မှ သွင်းသောစာ၊ လွှတ်တော်သို့ ထုတ်ရန် စာများကို သံတော်ဆင့်များ၊ မြဲတိုက်သံဆင့်များက အတွင်းဝန်များထံ လျှောက်ထားရသည်။ အရေးကြီးသော စာဖြစ်လျှင် ရှင်ဘုရင်ရွှေတော်သို့ အမြန်ပို့ရန်နှင့် လွှတ်တော်သို့ အမြန်ထုတ်ရန် စီမံ ဆင့်ဆိုရသည်။ ရှင်ဘုရင်ကထုတ်သော အမိန့်တော်များကို အမိန့်တော်မှာတမ်း ထုတ်သင့်သည်။ အမိန့်တော် မှတ်သားချက်ထားသင့်သည်။ လွှတ်တော်သို့ထုတ်၍ အမိန့်တော်ပြန်သင့်သည်များကို ခွဲခြားဝေဖန်ရသည်။ အမိန့်တော် ထပ်မံ၍ ခံယူသင့်သော ရှုပ်ထွေးသောအရာပါလျှင်၊ သို့မဟုတ် အလိုအပိုရှိလျှင် သံတော်ဆင့်များသို့ အတွင်းဝန်များက ဆင့်ဆိုရသည်။

ညီလာခံတွင်ဖြစ်စေ၊ အရာရှိများ ရှေ့တွင် ဖြစ်စေ ရှင်ဘုရင်က အမိန့်တော် ရှိသည်ကို သံတော်ဆင့်များက ရေးသား၍ အမိန့်တော် ထုတ်ပြန်လေ့ ရှိသည်။ တခါတရံ ရှင်ဘုရင်က စံတော်မူရာ ဌာနမှနေ၍ သင့်လျော်ရာ လူကို စေလွှတ်၍ အတွင်းဝန်မင်း များထံ အမိန့်တော် ပြန်လာသော အမိန့်တော်များကို မည်သည့်နေ့က မည်သူလာ၍ မည်ကဲ့သို့ မြဲတိုက်တော်တွင် အမိန့်တော်ပြန်လာသည် ဆိုသော အကြောင်းကို မှူးမတ်များရှေ့တွင် ရှင်ဘုရင်ထံ အလှည့်ကျ သံတော်ဆင့်များက ထပ်မံ၍ အမိန့်တော်ခံရသည်။

သံတော်ဆင့်များသည် အလှည့်ကျ ဆောင်ရွက်ရသောကြောင့် သံတော်ဆင့်တိုင်းလိုလို၌ ကိုယ်စီကိုယ်စီ မူလမှတ်သားရင်း အမိန့်တော်ဖြစ်သော ပြန်ရင်း အမိန့်တော်များ ထားကြရသည်။ ထိုကဲ့သို့ ပြန်ရင်း အမိန့်တော်များ ရေးသားဆားပြီးနောက် လွှတ်တော်သို့ ထုတ်ပြန်ရန် ပုံပြန်လက်ကိုင်ခေါ်သော သံတော်ဆင့်နှင့် မြဲတိုက်သံဆင့်ထံသို့ ပေးအပ်ရသည်။ ပုံဟူသောစကားမှာ လူပုံ၊ ဗိုလ်ပုံ၊ လူစု၊ ဗိုလ်စုဆိုသောစကားများကဲ့သို့ အများနှင့် စပ်ဆိုင်သော ဝေါဟာရ ဖြစ်သည်။ ပုံပြန် လက်ကိုင် သံတော်ဆင့်တွင် လက်ထောက် မြဲတိုက် သံဆင့် တယောက်၊ စာရေးတော် နှစ်ယောက်လည်း ရမြဲဖြစ်သည်။ မည်သည့်အမိန့်တော်မျိုးမဆို အတွင်းဝန်မင်းများ ကြားသိပြီးမှ လွှတ်တော်သို့ထုတ်ပြန်ရစမြဲ ဖြစ်သည်အလျောက် ပုံပြန်ဌာနမှ မြဲတိုက်သံဆင့်

က အတွင်းဝန်မင်းများထံ တပါးစီ တပါးစီ လှည့်လည်ဖတ်လျှောက်ရသည်။ ရှင်ဘုရင် ရှေတော်သို့ သွင်းရန် လွှတ်တော်က သွင်းသော သွင်းစာများ၊ မှာတမ်းများကိုလည်း ဆိုခဲ့သည့်နည်းပင်၊ ပုံပြန်ဌာနမှ ပြတိုက်သံဆင့်က အတွင်းဝန်များစေ့အောင် တိုင်တန်းပြီးမှ အလှည့်ကျ သံတော်ဆင့်သို့ အပ်၍ ရှေတော်သို့ သွင်းရသည်။ ပုံပြန်သံတော်ဆင့်ထံ ရောက်ပြီးမှ ဆိုင်းထား ရသော အမိန့်တော် များလည်း ရံဖန်ရံခါ ပေါ်ပေါက်လာတတ်သည်။

မင်းခမ်း မင်းနားနှင့်စပ်၍ နေ့စဉ်မှတ်၊ လစဉ်မှတ်၊ နှစ်စဉ်မှတ် အကြောင်းထူးမှတ် စသော အရပ်ရပ်မှတ်သားဖွယ်များကိုလည်း နေ့စဉ်မပြတ် မှတ်သားစေရန် သံတော်ဆင့်တယောက်ယောက်ကို တာဝန်ပေးလေ့ရှိသည်။ သိက္ခာ သမာဓိနှင့် ဝါရင့်သူကိုသာလျှင် ထားလေ့ရှိသည်။ အတွင်းဝန်မင်းလေးယောက်နှင့် သံတော်ဆင့် လေးယောက်သာ ကွမ်းထွေးပေါက်ရသည်။

သံတော်ဆင့်တို့တွင် လွတ်လွတ် ထွက်သော အသံရှိခြင်း၊ နာချင်ဖွယ် သာယာသော အသံရှိခြင်း၊ စကားအရာ လိမ်မာခြင်း၊ ရှုချင်ဖွယ် တင့်တယ် လျောက်ပတ်သော အဆင်းရှိခြင်း၊ လျင်မြန်သော ဉာဏ်ရှိခြင်း တည်းဟူသော အင်္ဂါလက္ခဏာ ငါးပါးရှိရကြောင်းဖြင့် ရာဇသေဝကဒီပဏီကျမ်း၌ ဆိုသည်။

**သံတောင်မြို့။** ။ကော်သူးလေ ပြည်နယ်တွင် ပါဝင်သော သံတောင်မြို့သည် ရှေးယခင်က တောင်ငူခရိုင်တွင် တခုတည်းသော တောင်စခန်းမြို့ဖြစ်၍ တောင်ငူမြို့မှ အရှေမြောက်ဖက် ၂၂ မိုင်ခန့်ဝေးသည့် နေရာတွင် တည်ရှိ၏။

သံတောင်မြို့သည် ဘားအံခရိုင်၊ သံတောင်ခရိုင်ခွဲနှင့် သံတောင်မြို့နယ်တို့၏ ရုံးစိုက်မြို့ ဖြစ်သည်။ သံတောင်မြို့နယ်၏ လူဦးရေမှာ ၁၉၇၁ ခုနှစ် ခန့်မှန်းချက်အရ ၅၁,၀၀၀ ဖြစ်၏။

စခန်းတည်ရာမှာ ပင်လယ်ရေမျက်နှာပြင်ထက် ပေ ၄,၂၀၀ မြင့်၍ တောင်စွယ်တခု၏ အစွန်းတွင်ရှိ၏။ ပတ်ဝန်းကျင်တွင် တောတောင်ဥယျာဉ်တို့ဖြင့် တန်ဆာ ဆင်အပ်သော သဘာဝအလှကို တွေ့ရ၏။

ရာသီဥတုမှာ အလွန်ပူသောအချိန်များ၌ပင် အပူချိန်ဖာရင်ဟိုက် ၇၀ ဒီဂရီထက် မပိုချေ။

မိုးအခါများ၌ မိုးသည်းထန်စွာ ရွာသွန်း၏။ ကော်ဖီမှုန့်၊ လက်ဖက်ခြောက်၊ ပန်းနှင့် သစ်သီးများ ထွက်၏။ တောင်ငူမှ သံတောင်သို့၂၈ မိုင်ရှည်လျားသော မော်တော်ကားလမ်းရှိ၏။ ပသီချောင်းထိ ပဌမ ၁၃ မိုင်သည် မော်ချီးမြို့သို့သွားသော မော်တော်ကားလမ်း အတိုင်း ဖြစ်၍ ကတ္တရာလမ်းဖြစ်၏။ ပသီချောင်းမှလမ်းသည် တဖန် ဝဲဖက်သို့ သံတောင်အထိ ရောက်လေသည်။ ယာဖက်လမ်းသည် မော်ချီးသို့ သွားသောလမ်း ဖြစ်သည်။

**သံတွဲခရိုင်။** ။သံတွဲခရိုင်သည် မြန်မာနိုင်ငံ ရခိုင်တိုင်းတွင် ပါဝင်သော ခရိုင်တခုဖြစ်၏။ မြောက်ဖက်၌ မအီမြစ်သည် ကျောက်ဖြူခရိုင်နှင့် ခြားနားလျက်ငင်း၊ တောင်ဖက်၌ ဂွမြစ်သည် ပုသိမ်ခရိုင်နှင့် ခြားနားလျက် ငင်း ရှိ၏။ အရှေဖက်တွင် ရခိုင်ရိုးမတောင်က ပိုင်းခြားလျက် သရက်ခရိုင်၊ ပြည်ခရိုင်နှင့် ဟင်္သာတခရိုင်တို့ ရှိသည်။ အနောက်ဖက်တွင်ကား ဗင်္ဂလား ပင်လယ်အော် ရှိ၏။ သံတွဲခရိုင်တွင်း၌ ကျရောက်သော ရခိုင် ကမ်းရိုးတန်းသည် စစ်တွေနှင့် ကျောက်ဖြူခရိုင်အတွင်းရှိကမ်းရိုးတန်းကဲ့သို့ အကောက်အကွေ့နှင့် ကျွန်းစုများစွာ မရှိချေ။ သို့ရာတွင် တောင်ထူထပ်၍ ရိုးမတောင်မှ တောင်စွယ်များသည် ကမ်းရိုးတန်းဖက်သို့ ထိုးထွက်နေလေသည်။ ခရိုင်မြောက်ပိုင်းရှိ တောင်ထွတ်များသည် ပေ ၅,၀၀၀ ခန့်အထိ မြင့်၏။

သံတွဲခရိုင် အတွင်းတွင် ရိုးမတောင်ကို ဖြတ်ကျော်သည့် ''တောင်ကုတ်'' တောင်ကြားလမ်းရှိ၍ ပြည်၊ ရွှေတောင်မြို့များနှင့် အဆက် အသွယ် ကောင်းမွန်သည်။ တောင်ကုတ် တောင်ကြားလမ်းသည် တောင်ကုတ်မြို့မှနေ၍ ပြည်ခရိုင်၊ ပန်းတောင်းမြို့အထိ ပေါက်ရောက်၍ လှည်းနှင့် ကားများ သွားလာနိုင်လေသည်။ သံတွဲခရိုင်တွင် မအီ၊ တန်းလွဲ၊ တောင်ကုတ်၊ သံတွဲ၊ ကျိန်တလီနှင့် ဂွမြစ်များရှိသည်။ ဂွမြစ်ဝမှာ မီးသင်္ဘောငယ်များ ကျောက်စွဲစခန်းချရန် အလွန်ကောင်းသော နေရာတခုဖြစ်၏။ ခရိုင်နယ်မြေတခုလုံးလိုလိုပင် အမြဲ စိမ်းလန်းသော သစ်တောများ၊ ဝါးတောများဖြင့် ဖုံးအုပ်နေ၍ လယ်ယာလုပ်ကိုင်ရန် နေရာအလွန်ကျဉ်းမြောင်းသည်။

သံတွဲခရိုင်၏ ရာသီဥတုမှာ အခြား ရခိုင်တိုင်းရှိ ခရိုင်များနှင့် မတူပဲ ကျန်းမာရေး အလွန်ညီညွတ်၏။ ခရိုင်တွင်းစိုက်ပျိုး လုပ်ကိုင်ကြသော သီးနှံများမှာ ဆန်စပါး၊ ကြံ၊ ဝါဂွမ်း၊ ဆေး၊ ဟင်းသီးဟင်းရွက်နှင့် ခနိများဖြစ်၍ ပိုက်ဆံလျှော်ပင်များလည်း အနည်းငယ် စိုက်ပျိုးသည်။ ဆန်စပါးမှာ အဓိကသီးနှံဖြစ်၏။ ငပိ၊ ငခြောက်လုပ်ငန်းလည်း တွင်ကျယ်သည်။

သံတွဲခရိုင်သည် ၄,၁၅၇ စတုရန်းမိုင် ခန့်ကျယ်ဝန်း၍ ၁၉၇၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၂၁၉,၀၀၀ ယောက်ရှိသည်။ ဗုဒ္ဓအယူဝါဒီ ရခိုင်နှင့် မြန်မာ လူမျိုးများမှာ လူများစုများ ဖြစ်ကြ၏။ သံတွဲခရိုင်ကို ခရိုင်ခွဲနယ်များ မခွဲပဲ သံတွဲမြို့နယ် တောင်ကုတ်မြို့နယ်နှင့် ဂွမြို့နယ်ဟူ၍ မြို့နယ်သုံးခုခွဲ၍ အုပ်ချုပ်ခဲ့လေသည်။

သံတွဲခရိုင်၏ခရိုင်ရုံးစိုက်မြို့မှာ သံတွဲမြို့ ဖြစ်ခဲ့၍ အစိုးရ

ဌာနအသီးအသီးတို့၏ ခရိုင်ရုံးများကို သံတွဲမြို့တွင်စိုက်ခဲ့လေသည်။ ထိုမှတပါး ဆေးရုံ၊ ဈေးနှင့် စာသင်ကျောင်းများလည်း ရှိလေသည်။

**သံတွဲမြို့။** ။သံတွဲမြို့သည် မြန်မာနိုင်ငံ ရခိုင်တိုင်း၊သံတွဲခရိုင်၏ ခရိုင်ဝန်ရုံးစိုက်ရာ မြို့ဖြစ်ခဲ့၍ သံတွဲ မြစ်ဝမှ အရှေ့တောင်ဖက် ၁၅ မိုင်အကွာ လက်ဝဲဖက်ကမ်းပေါ်တွင် တည်ရှိသည်။ ပင်လယ်ကမ်းခြေမှ အရှေ့ဖက်စူးစူးဆိုလျှင် လေးမိုင်နှင့် ငါးမိုင်ကြား လောက်သာ ဝေးသည်။ မြို့သည် တောင်ကုန်းများ ဝိုင်းရံကာ အလျား ၁၂ မိုင် အနံတမိုင်ခန့်ရှိသော ချိုင့်ဝှမ်းတွင် တည်ရှိသည်။ မြို့ခံလူနေအိမ်ခြေများသည် တောင်ကုန်းလေး တခုကို နောက်ခံ ထား၍ ဆောက်လုပ်ထားကြသည်။တောင်ကုန်းလေးပေါ်တွင်ကား ယခင်က ဥရောပတိုက်သား အရာရှိများ နေထိုင်သောအိမ်များရှိကြသည်။ အခြားအရာရှိများမှာ တောင်ကိုမျက်နှာမူ၍ ခပ်ဝိုင်းဝိုင်း ဆောက်ထားကြသည်။ တရားရုံးကား မြစ်အနီး ခပ်လှမ်းလှမ်းတွင် ရှိသည်။ ၁၈၇၁ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်း အရ လူဦးရေမှာ ၇,၅၄၇ ယောက်ဖြစ်သည်။ ယခုအခါ သံတွဲမြို့သည် ရခိုင်တိုင်း အဝင်အပါ သံတွဲမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။

သံတွဲမြို့သည် ၁၉ ရာစုနှစ်အစ၊ ပဌမ အင်္ဂလိပ်မြန်မာစစ်ပွဲတွင် ရခိုင်တိုင်းအတွက် မြို့စောင့်တပ် ချထားရာ ဌာနချုပ်ဖြစ်ခဲ့သည့် အလျောက် အတော် ထင်ရှားသောမြို့ကလေးတမြို့ ဖြစ်ခဲ့ဘူးသည်။ ထိုစဉ်အခါက ရွာကြီးသာသာဖြစ်ခဲ့သည်။

သံတွဲမြို့၏ မြို့ ရွာ သန့်ရှင်း စည်ပင်ရေး အတွက် မျူနီစီပယ်အဖွဲ့ကို ခရစ် ၁ဂဂ၅ ခုနှစ်မှစ၍ ဖွဲ့စည်းဆောင်ရွက်လာခဲ့သည်။ ယင်း မျူနီစီပယ်အဖွဲ့သည် မြန်မာနိုင်ငံတွင် အငယ်ဆုံး မျူအဖွဲ့ဖြစ်သည်။ သံတွဲမြို့သည် ပင်လယ်ကူးသင်္ဘောများ ကျောက်စဲ့နိုင်သည့် စခန်းနှင့် တိုက်ရိုက်ဆက်သွယ်လျက်ရှိသော်လည်း သင်္ဘောငယ်ကလေးဖြင့်သာ ရောက်ရှိနိုင်ခဲ့သည်။သံတွဲမြို့တွင် ခရိုင် အုပ်ချုပ်ရေးဆိုင်ရာ ရုံးများ၊ အကျဉ်းထောင်၊ ဆေးရုံ၊ အစိုးရ အထက်တန်းကျောင်း၊ အလယ်တန်းကျောင်းများနှင့် ဈေးရုံရှိသည်။ ချင်းလူမျိုးများအတွက် ခရစ်ယန် သာသနာပြုကျောင်းလည်းရှိခဲ့သည်။ အံတော်၊ နံတော်၊ ဆံတော်ဟူ၍ ထင်ရှား



သံတွဲမြို့တွင် ရွှေအံတော်၊ ရွှေနံတော်၊ ရွှေဆံတော်ဟူ၍ ထင်ရှားသော စေတီသုံးဆူသည် သံတွဲမြစ်၏ တဖက်တချက်စီတွင် ရှိကြသည်။ ဤပုံတွင် ရွှေနံတော်စေတီကို ကြည်ညိုဖွယ် ဖူးတွေ့နိုင်ပေသည်။



သံတွဲမြို့အနီးရှိ သာယာလှပသည့် ငပလီပင်လယ်ကမ်းခြေ တနေရာ

သော စေတီသုံးဆူသည် သံတွဲမြစ်၏ တဖက်တချက်စီတွင် ရှိကြသည်။ ဆံတော်ဘုရားကား ဒုတိယကမ္ဘာစစ်အတွင်းက ပျက်စီးသွားခဲ့ရာ စစ်ပြီးခေတ်တွင် သာသနာရေးဌာနမှ ထပ်မံမွမ်းမံပြင်ဆင်ပြီးသွားသည်။ သံတွဲမြို့မှ သစ်၊ စပါးနှင့် ငါးခြောက်များထွက်သည်။

ယခုအခါ ပင်လယ်ကမ်းခြေ အပန်းဖြေစခန်းအဖြစ်ဖြင့် အလွန်ထင်ရှားလာ၍ ရန်ကုန်မြို့မှ လူအများ သွားရောက်အပန်းဖြေကြသော ငပလီပင်လယ်ကမ်းခြေသည် သံတွဲမြို့နှင့် လေးမိုင်မျှလောက်သာ ဝေးကွာသည်။ ငပလီအပန်းဖြေစခန်းကြောင့် သံတွဲမြို့သည် ရေကြောင်းအပြင် လေကြောင်းဖြင့်လည်း လမ်းပန်းဆက်သွယ်ရေးအလွန်ကောင်းမွန်လာသည်။ မဇင်းလေဆိပ်သည် သံတွဲမြို့နှင့် ခုနစ်မိုင်ခန့် ဝေး၍ ကတ္တရာလမ်း ဖောက်ထား သဖြင့် အသွားအလာလွယ်ကူ၏။ ယခင်က မဇင်းလေဆိပ်သို့ ရန်ကုန်မှ ရက်သတ္တတပတ်လျှင် လေကြောင်းခရီး သုံးကြိမ်သာရှိ၍ စနေနေ့တွင် အထူးလေယာဉ်ခရီး ပျံသန်းလျက် ရှိသည်။ ယခုအခါ သံတွဲမြို့ရှိ မဇင်းလေဆိပ်သို့ လေကြောင်းခရီး နေ့စဉ် ပျံသန်းလျက် ရှိသည့်အပြင် နွေရာသီတွင် ငပလီကမ်းခြေ၌ အပန်းဖြေလိုသူများအတွက် အထူးလေယာဉ်များလည်း စီစဉ်ပေးထားလေသည်။

ငပလီကမ်းခြေစခန်းသည် ရွာကလေးဖြစ်၍ မဇင်းလေဆိပ်မှ နှစ်မိုင်မျှသာ ဝေးကွာသည်။ အဘယ်ကြောင့် ငပလီဟု ခေါ်တွင်သည်ကိုကား မည်သူမျှ သိဟန်မတူချေ။ စင်စစ် ငပလီသည် မြန်မာစကားမဟုတ်ချေ။ ခရစ် ၁၈၂၆ ခုနှစ် အင်္ဂလိပ်မြန်မာ ပဌမစစ်ပွဲအပြီးတွင် ရခိုင်တိုင်းကို အင်္ဂလိပ်တို့ သိမ်းပိုက်ပြီးသည့်နောက် ဣတာလျံလူမျိုးတို့သည် သံတွဲမြို့အနီး ယခု ငပလီစခန်းသို့ ရောက်ရှိလာကြ၏။ ငပလီစခန်းနေရာသည် ဣတလီနိုင်ငံရှိ "နေပလီ" (နေပယ်) ကမ်းခြေစခန်းကဲ့သို့ အလွန်သာယာ၍ ရှုခင်းအလွန်ကောင်းရကား "နေပလီ" ဟု ကင်ပွန်းတပ်ကာ အမည်မှည့်ခဲ့ရာ နောင် ကာလရွေ့လျောလာသောအခါ "နေပလီ" မှ "ငပလီ" တွင်လာသည်ဟု ယူဆကြသည်။

သံတွဲခရိုင်တွင် သင်္ဘောဆိပ်ကောင်း မရှိသဖြင့် ရေကြောင်း ခရီး သွားလာမှု ခက်ခဲခဲ့ရာ ယခုအခါ သင်္ဘော

ဆိပ်ကောင်းတခုကို မရိုးပင်လယ်ကွေ့ရှိ ' လုံးသာတွင် တည်ဆောက်ထားပြီးဖြစ်လေသည်။

**သံနှင့် သံမဏိ။** ။သံသည် ဆီလီကွန်၊ အောက်ဆီဂျင်၊ အလျူမီနီယမ်မှလွဲလျှင် ကမ္ဘာပေါ်တွင် အတွေ့ရအများဆုံး ဒြပ်စင်ဖြစ်၏။ ကျွန်ုပ်တို့ နေထိုင်လျက်ရှိသော ကမ္ဘာကြီးကို အပုံ ၂၀ ပုံလျှင် တပုံမှာ သံဖြစ်၏။ တနည်းအားဖြင့်ဆိုသော် ကမ္ဘာမြေ အလေးချိန် ပိသာတရာလျှင် ပျမ်းမျှခြင်းအားဖြင့် ငါးပိသာမှာ သံဖြစ်၏။ အချို့သော လူများကမူ ကမ္ဘာမြေကြီး၏ အလွန်နက်ရှိုင်းသော အရပ်ဒေသများတွင် သံအမြောက်အမြား ရှိသည်ဟု ယုံကြည်ကြသည်။ အကယ်၍ ထိုသို့ ယုံကြည်သည့်အတိုင်းသာ သံရှိရိုးမှန်လျှင် သံ၏ အချိုးအစားမှာ အတိုင်းထက်အလွန်ပိုလာဖွယ်ရာ ရှိ၏။ ကမ္ဘာမြေကြီးပေါ်တွင်မူကား သံမှာ နေရာတကာတိုင်း၌လိုပင် ဖွဲ့စည်း ပါဝင်လျက်ရှိ၏။ မြေဆီလွှာနှင့် ကျောက်များတွင် အနည်းနှင့်အများဆိုသလို သံတွေ့ရှိရ၏။ သွေးတွင် အနီရောင်ရှိခြင်းမှာ သံဓာတ်ကြောင့်ဖြစ်၏။ ယုတ်စွအဆုံး အပင်များတွင် မရှိမဖြစ်သည့် သစ်စိမ်း ဓာတ်ခေါ် ကလိုရိုဖီ၌ပင်လျှင် သံဓာတ် ပါရှိလေသည်။

ဤသို့ သံကို နေရာအနှံ့အပြားတွင် တွေ့ရှိကြရသော်လည်း ကျွန်ုပ်တို့သည် ခြံထဲရှိ မြေမှဖြစ်စေ၊ ကျောက်ဟူသမျှမှ ထရိုက်ချေမှုန်း၍ဖြစ်စေ သံကို ထုတ်ယူမရရှိနိုင်ပေ။ အဘယ်ကြောင့်ဆိုသော် ဤပစ္စည်းများတွင် ထုတ်ယူနိုင်လောက်အောင် သံမကြွယ်ဝသောကြောင့် ဖြစ်သည်။ သို့သော် သံသတ္တုရိုင်းခေါ် အချို့သော ကျောက်များတွင် သံအမြောက်အမြား ပါရှိသည်ကို တွေ့ရ၏။ အကောင်းဆုံး သံသတ္တုရိုင်းတွင် ရာခိုင်နှုန်း ၅၀ ခန့် သံပါရှိသည်ကိုငင်း၊ အညံ့စား သံသတ္တုရိုင်းတွင် ရာခိုင်နှုန်း ၃၀ မှ ၅၀ အထိ သံပါရှိသည်ကိုငင်း တွေ့ရ၏။

သံ အလွန်ကြွယ်ဝသော သတ္တုရိုင်းများမှာ ဟီမတိုက်၊ လိုင်မိုနိုက်၊ မက်ဂနက်တိုက်နှင့် ဆစ်ဒါရိုက်ဟူ၍ လေးမျိုးရှိ၏။ ဟီမတိုက်ခေါ်သော ဝေါဟာရမှာ ဂရိ စကားဖြစ်၍ သွေးဟု အဓိပ္ပါယ်ရသည်။ ဤသတ္တုရိုင်းကို ဟီမတိုက်ဟုခေါ်ရခြင်းမှာ သတ္တုရိုင်းအမှုန့်တွင် သွေးကဲ့သို့ နီရဲသော အရောင်ရှိခြင်းကြောင့် ဖြစ်၏။ ရာခိုင်နှုန်း ၇၀ သံပါရှိခြင်းကြောင့်ငင်း၊ နေရာအနှံ့အပြားတွင် တွေ့ရှိရခြင်းကြောင့်ငင်း သံသတ္တုရိုင်းတို့တွင် ဟီမတိုက်သည် အရေးအကြီးဆုံးဖြစ်၏။ ဟီမတိုက်မှာ လိုင်မိုနိုက်နှင့် မက်ဂနက်တိုက်တို့ကဲ့သို့ပင် အိုင်းယန်းအောက်ဆိုက်ဖြစ်၏။များသောအားဖြင့် ထိုသတ္တုကို အင်္ဂလန်နိုင်ငံ ကမ်ဗာလန်နှင့် လန်ကရှိုင်ယာတွင် ငင်း၊ အမေရိကန်နိုင်ငံ ဆုပီးရီးယား ရေအိုင်တဝိုက်၌ငင်း တွေ့ရ၏။ အချို့လုပ်ငန်းများတွင် ဟီမတိုက်ကို အမှုန့်ကြိတ်ပြီးလျှင် ခြယ်ဆေးအဖြစ်ဖြင့် အသုံးပြုကြသည်။ အချို့ ဟီမတိုက်တို့သည် ပုံဆောင်ခဲများအဖြစ်ဖြင့် အစိတ်စိတ်ကွဲလျက် တွေ့ရတတ်၏။ ထိုပုံဆောင်ခဲများ၏ မျက်နှာတို့မှာ မှန်ကဲ့သို့ တပြင်တည်း ရှိကြ၏။ ဟီမတိုက်ကို ကျောက်ကပ်ပုံအတုံးအဖြစ်ဖြင့်လည်း အတွေ့များသဖြင့် တခါတရံ ကျောက်ကပ်သတ္တုရိုင်းဟူ၍ပင် ခေါ်ကြ၏။

လိုင်မိုနိုက်ခေါ် သတ္တုရိုင်းကို စပိန်နိုင်ငံ၌ အမြောက်အမြားတူးဖော်ရရှိ၍ များသောအားဖြင့် အင်္ဂလန်နိုင်ငံနှင့် ဂျာမနီနိုင်ငံသို့တင်ပို့ကြ၏။လိုင်မိုနိုက်မှာ လက်တင်ဝေါဟာရဖြစ်၍ မြက်ခင်းဟု အဓိပ္ပါယ်ရ၏။ ဤအမည်ဖြင့် မှည့်ခေါ်ရခြင်းမှာ လိုင်မိုနိုက်သတ္တုရိုင်းအညံ့စားတမျိုးကို ရွှံ့နွံပေါ်၍ စိုထိုင်းသော မြက်ခင်းများပေါ်တွင် တွေ့ရှိခဲ့ရသောကြောင့် ဖြစ်၏။ လိုင်မိုနိုက် သတ္တုရိုင်းကို တခါတရံ အညိုရောင် ဟီမတိုက်ဟုလည်း ခေါ်၏။

မက်ဂနက်တိုက် သတ္တုရိုင်းကိုမူကား ဆွီဒင်နိုင်ငံ၊ ဒင်နာမိုရာနှင့် ဂံလီဗာ အရပ်ဒေသများမှ ရရှိလေသည်။ ဒင်နာမိုရာအရပ်မှ သံကို လူတို့သည် လွန်ခဲ့သည့် နှစ်ပေါင်း ၅၀၀ ခန့်ကပင် တူးဖော် အသုံးပြုခဲ့ကြ၏။ ဤသတ္တုရိုင်းကို တနည်းအားဖြင့် လုဒ်စတုန်း(သံလိုက်ကျောက်)ဟူ၍လည်း ခေါ်၏။ မက်ဂနက်တိုက်မှာ ကြပ်ဆတ်၍ ပြောင်လက်သော အမဲရောင်ရှိ၏။ သံလိုက်တန်ခိုးရှိခြင်းကြောင့် သံနှင့် သံမဏိတို့ကို ဆွဲငင်နိုင်သော သတ္တိရှိ၏။ အချို့ သတ္တုရိုင်းများတွင် သံရာခိုင်နှုန်း အမြောက်အမြား ပါရှိ၏။ တခါတရံ သံသန့်သန့်ကိုလည်း တွေ့ရတတ်၏။ ရှေးအခါက လူတို့သည် ရေတွင် ပေါ်သော သစ်သားချောင်းများတွင် မက်ဂနက်တိုက် သတ္တုရိုင်းအစယ်ကို မြှုပ်၍ ကွန်ပါခေါ် အိမ်မြှောင်အဖြစ်ဖြင့် ရေကြောင်းခရီးသွားရာတွင် အသုံးပြုခဲ့ကြ၏။ ဤသတ္တုရိုင်းကို ရှေးအခါက ဂရိနိုင်ငံမြောက်ပိုင်း မက်နီဇီယာခေါ် အရပ်၌ တွေ့ရှိခဲ့ခြင်းကြောင့် မက်ဂနက်တိုက်အမည်မှာ မက်နီဇီယာနှင့် အဆက်အသွယ်ရှိခဲ့လေသည်။

ဆစ်ဒါရိုက် သတ္တု ရိုင်းမှာ အမျိုးအမည်အားဖြင့် အလွန်များ၏။ အင်္ဂလန်နိုင်ငံ ယော့ရှိုင်ယာ၊ နော့သမ်တန်ရှိုင်ယာနှင့် ဝေလနယ်များတွင် တွေ့ရှိရသော သတ္တုရိုင်းများမှာ ဆစ်ဒါရိုက်အမျိုးတွင် အကျုံးဝင်၏။ ဆစ်ဒါရိုက်မှာ ဂရိစကားဖြစ်၍ သံဟု အဓိပ္ပါယ်ရသည်။ မွဲပြာရောင်၊ သို့မဟုတ် အညိုရောင် ပုံဆောင်ခဲများဖြစ်၍ မာလည်း အလွန်မာ၏။ အင်္ဂလန်နိုင်ငံတွင် တွေ့ရသော သံသတ္တုရိုင်းတို့တွင် အရေးအကြီးဆုံးဖြစ်၏။ ဓာတ်သဘော အလိုအားဖြင့် အိုင်းယန်းကာဗွန်နိတ်ဖြစ်၏။ ထင်းမီး အလွန်ပေါသောနေရာများအတွက် သံရည်ကျိုယူရန်ကောင်းသော

သတ္တုရိုင်းဖြစ်၏။ အခြား သတ္တုရိုင်းများနှင့်စာလျှင် သံရာခိုင်နှုန်း အလွန်နည်း၏။ အင်္ဂလန်နိုင်ငံတွင် ပဌမ တွေ့ခဲ့စဉ်က ကျောက်မီးသွေးနှင့်အတူ တနေရာတည်း၌ တွေ့ရှိခဲ့ခြင်းကြောင့် ထိုနိုင်ငံတွင် စက်မှုလက်မှုပညာမှာ နေ့ခြင်းညခြင်း တိုးတက်ခဲ့၏။

ဤ သတ္တုရိုင်းများအပြင် အိုင်ယန်းပိုင်ရိုက်တီးခေါ် အိုင်ယန်းဆာလဖိုဒ်မှလည်း သံကို ထုတ်ယူကြ၏။ သံရိုင်းအများဆုံးထွက်သော နိုင်ငံမှာ အမေရိကန် ပြည်ထောင်စုနိုင်ငံဖြစ်၏။ အခြားသံထွက်ရာ၌ ထင်ရှားသော နိုင်ငံများမှာ အင်္ဂလန်၊ ဂျာမနီ၊ ပြင်သစ်၊ ရုရှနိုင်ငံတို့ဖြစ်၏။ ကမ္ဘာ့အရပ်ရပ်မှ ထုတ်လုပ်လျက်ရှိသော နှစ်စဉ်ပျမ်းမျှသံတန်ချိန်စာရင်းမှာ အမေရိကန်ပြည်ထောင်စုနိုင်ငံ တန်ချိန် ၄၀,၀၀၀,၀၀၀၊ ဂျာမနီနိုင်ငံ တန်ချိန် ၂၀,၀၀၀,၀၀၀ အင်္ဂလန်နိုင်ငံတန်ချိန် ၁၀,၃၀၀,၀၀၀၊ ပြင်သစ်နိုင်ငံ တန်ချိန် ၇,၀၀၀,၀၀၀၊ ရုရှနိုင်ငံ တန်ချိန် ၄,၂၀၀,၀၀၀ အသီးအသီးဖြစ်ကြ၏။ ကမ္ဘာပေါ်တွင်အခြားသောနိုင်ငံများမှလည်း သံကို ထုတ်လုပ်လျက်ရှိကြ၏။ သို့သော်ဤစာရင်းနှင့်စာလျှင် သံအထွက်မှာ ပြောပလောက်အောင်မများချေ။ ဂျာမနီနိုင်ငံသည် သံဖြင့် အလွန်ကြွယ်ဝသည့် အရပ်ဒေသဖြစ်သော အယ်လဆက် လိုရိန်းနယ်ကို ပဌမကမ္ဘာစစ်ကြီး အပြီးတွင် ထိုးအပ်ခဲ့ရသဖြင့် သံအထွက်တွင် များစွာ ဆုတ်ယုတ်ခဲ့လေသည်။ ရုရှနိုင်ငံတွင်မူကား ယခုအခါ သံတွင်းများကို တိုးချဲ့လျက် လုပ်ကိုင်နေပြီဖြစ်၍ သံအထွက်တွင် များစွာတိုးတက်ခဲ့၏။ အချို့သောသူများက ယခုခေတ်တွင် အမေရိကန်နိုင်ငံမှလွဲလျှင် ရုရှနိုင်ငံသည် သံအထွက်ဆုံးနိုင်ငံဖြစ်သည်ဟု အသိအမှတ်ပြုကြ၏။ ကမ္ဘာပေါ်တွင် တနှစ်တနှစ်လျှင် သံတန်ချိန် သန်းပေါင်း ၁၀၀ မျှ ထွက်၏ဟု ဆိုလေသည်။ ဤလောက်များပြားသည့်သံကို စတုရန်းပုံ သံတုံးတည်းဖြင့် ပြုလုပ်လိုက်မည်ဆိုပါက ထိုသံတုံး၏ အနားများသည် မိုင်ဝက်စီရှိပြီးလျှင် ထိုသံတုံးကို တပတ်ပတ်ကြည့်ရန် အနည်းဆုံး နာရီဝက်ခန့်ကြာပေမည်။

ယခုခေတ်သည် သံခေတ်ဖြစ်သည့်အလျောက် သံ၏အသုံးဝင်ပုံမှာ မရေမတွက်နိုင်အောင် များပြားလှ၏။ တနေရာမှ တနေရာသို့ သွားလာရန် ကျွန်ုပ်တို့အသုံးပြုလျက်ရှိသော မီးရထား၊ မော်တော်ကား၊ သင်္ဘောစသည့်ယာဉ်ရထားများကို သံဖြင့်တည်ဆောက်ကြရ၏။ သံယက်မကြီး၊ သံဘောင်၊ သံတံခါး၊ သံကရိယာ၊ အိမ်ဆောက်ရာ၌သုံးသည့် အတိုအထွာ သံထည်ပစ္စည်းစသည်တို့ ရှိခြင်းကြောင့် အလွန်ကြီးကျယ်ခန့်ငြားသော တိုက်တာ အဆောက်အအုံများကို ဆောက်လုပ်နိုင်ကြ၏။ အိမ်တွင်းသုံး အိုးခွက်၊ ဓား၊ ကတ်ကျေးများသည် သံထည်ပစ္စည်းများ ဖြစ်သည်။ ယခုခေတ် စစ်သုံးပစ္စည်းဟူသမျှတွင် သံနှင့်ကင်းသည်ဟူ၍ပင် မရှိချေ။ လူတို့တွင် အထည်အလိပ်နှင့်တကွ အခြားသော အသုံးအဆောင်ဟူသမျှကို စက်များဖြင့် ပြုလုပ်လျက်ရှိကြရာ အကယ်၍သာ သံမရှိခဲ့ပါမူ ကျွန်ုပ်တို့၏ နေထိုင်စားသောက်ရေး အဆင့်အတန်းသည် မည်သည့်အခြေသို့ ဆိုက်ရောက်သွားမည်ကို စဉ်းစားကြည့်နိုင်လေသည်။

ယခု ကျွန်ုပ်တို့ သံဟုပြောဆိုသုံးစွဲလျက်ရှိသော သတ္တုမှာ သံအစစ် မဟုတ်သေးချေ။ သံအစစ်မှာ စိန်ထက်ပင် ရှား၏။ သဘာဝတွင် သယံဇာတအဖြစ်ဖြင့် တွေ့ရခဲ၏။ သို့သော် တခါတရံ အခြားသောဂြိုဟ်များမှ သံတွေခဲအဖြစ်ဖြင့် ကမ္ဘာမြေပေါ်သို့ ကျရောက်လာတတ်၏။ သံအစစ်တွင် ငွေကဲ့သို့ အဖြူရောင်ရှိသည်ကိုသိလျှင် အချို့လူများ အံ့သြကောင်း အံ့သြကြပေမည်။ အညစ်အကြေးကင်းစင်သောသံသည် လူတို့တွင် အသုံးအဆောင်ပြုလုပ်ရန် အသုံးမဝင်ချေ။ သံသန့်သန့်ကို သယံဇာတအဖြစ်ဖြင့် မတွေ့ရှိရခြင်းမှာလည်း သံသည် အခြားသော ဒြပ်စင်များနှင့် အလွယ်တကူပေါင်းစပ်နိုင်သောကြောင့် ဖြစ်၏။ ဤသို့ ပေါင်းစပ်နိုင်သော ဂုဏ်ပင်လျှင် သံ၏အသုံးဝင်ခြင်း အကြောင်းရင်းဖြစ်ပေသည်။ အသုံးကိုလိုက်၍ ကျွန်ုပ်တို့သည် သံကို အမျိုးမျိုးပြုပြင်ယူနိုင်၏။ သံကို အနည်းနည်းအဖုံဖုံ စီမံပေးသောအခါ စိန်ကဲ့သို့ မာသောသတ္တု၊ သို့မဟုတ် ကြေးနီကဲ့သို့ ပျော့သောသတ္တုကိုငှင်း၊ ဖန်ကဲ့သို့ ကြွပ်ဆပ်သောသတ္တု၊ သို့မဟုတ် ငွေကဲ့သို့ အပြားရိုက်ခတ်နိုင်သော သတ္တုကိုငှင်း၊ မီးနှင့် လျှပ်စစ်ကိုလိုက်နိုင်သောသတ္တု၊ သို့မဟုတ် ခုခံနိုင်သောသတ္တုကိုငှင်း အသီးအသီး ရရှိနိုင်၏။ ခြုံ၍ပြောရလျှင် သံတွင် အခြားသတ္တုများစွာတွင်ရှိသည့် ဂုဏ်များကို စုပေါင်းလျက် တွေ့ရ၏။

သံကို ဆစ်သီယန်လူမျိုးတို့သည် တောမီးလောင်ရာမှ စတင်တွေ့ရှိခဲ့ကြသည်ဟု ရှေးအဆိုတရပ် ရှိလေသည်။ ထိုသံမှာ အခြားဂြိုဟ်များမှ ကျဆင်းလာသော သံတွေခဲများဖြစ်၍ တောမီးမလောင်မီ မြေပေါ်တွင် ရှိနေကြဟန်တူသည်။ ဤယူဆချက်မှာ အတော်အတန် ယုတ္တိရှိပေသည်။ အဘယ်ကြောင့်ဆိုသော် မဂိုဘုရင်ကြီး ဂျဟင်္ဂါ၏ လက်သုံးတော်ဓားမှာ ၁၆၂၀ ပြည့်နှစ်တွင် အိန္ဒိယနိုင်ငံ၌ ကျဆင်းသော သံတွေခဲမှ ပြုလုပ်ရရှိခဲ့သောကြောင့် ဖြစ်၏။ သို့သော် လူအများထင်မှတ်သောယူဆချက်တရပ်အရမှာသံရိုင်းထွက်ရာတောင်ကုန်းတို့၏အေးတွင် အလွန်ပူပြင်းသော မီးဖိုများကို ပြုလုပ်ခဲ့ရာမှ အစပြု၍ သံကိုတွေ့ရှိခဲ့ခြင်း ဖြစ်သည်ဟု ဆိုလေသည်။ အစပဌမ၌ သံကို အနီးရှိသံရိုင်းမှ ရရှိနိုင်ကြောင်း မသိရှိခဲ့ကြချေ။ အချိန်ကာလကြာမြင့်၍ နေရာအနှံ့အပြားတွင် အထက်ပါနည်းအတိုင်း သံကို တွေ့ရှိလာသောအခါမှ သံရိုင်းကိုအသုံးပြုရမှန်း သိရှိလာခဲ့ကြ

သည်။ စတင်သုံးစွဲစဉ်က သံသည် အလွန်အဖိုးထိုက်တန်ခဲ့၏။ နယ်သစ်ရှာဖွေသူတို့သည် မိမိတို့ရောက်ရှိရာအရပ်ဒေသများ၌ ရွှေနှင့်တိရစ္ဆာန်တို့၏ အမွေးများကဲ့သို့ အလွန်အဖိုးထိုက်တန်သော ပစ္စည်းများကို တိုင်းရင်းသားများထံမှ သံတိုမယ်နများဖြင့် လဲလှယ်ယူခဲ့ကြသည်။ နာမည်ကျော် ရေကြောင်းခရီးသွား ကက်ပတိန်ကွတ်သည် တာဟီးတီကျွန်း၌ သံမှိုများကို သစ်သားဖောက်ရန် ကရိယာအဖြစ်ဖြင့် ငှားရမ်းလျက် စီးပွားလမ်းဖြောင့်နေသော ထိုကျွန်းသားတို့မှ အကြီးအကဲတယောက်ကို တွေ့ခဲ့ရလေသည်။

ရှေးအခါက သံရည်ကျိုရန် လူများအသုံးပြုခဲ့ကြသော မီးဖိုများမှာ ထင်းမီးသွေးထိုးပေးရသည့် ရိုးရိုးမီးဖိုများဖြစ်၏။ ထိုစဉ်အခါက မီးအပူမှာ အလွန်နည်းသဖြင့် တကြိမ်လျှင်ပေါင် ၂၀၀၊ သို့မဟုတ် ၃၀၀ ခန့်ကိုပင် ခဲခဲယဉ်းယဉ်းကျိုယူခဲ့ကြရသည်။ သံကျိုရန်ကိစ္စမှာ အချိန်လည်းကြာ၍ စရိတ်လည်း အလွန်ကြီးလေးခဲ့လေသည်။ နောင်အခါ သံလုပ်ငန်းကြောင့် ထင်းများရှားပါးလာသဖြင့် လူတို့သည် ကျောက်မီးသွေးကို တစတစ သုံးစွဲလာခဲ့ကြ၏။ ကျောက်မီးသွေးဖိုများမှာ ကြီးလည်းကြီး၍ ပူလည်းအလွန်ပူသဖြင့် တကြိမ်လျှင် သံရိုင်းတန်ချိန် ၄၀၀ မှ ၁၀၀၀ အထိကျိုယူနိုင်၏။

သံကိုကျိုရာ၌ အဓိကရည်ရွယ်ချက်မှာ သံမှ အညစ်အကြေးများကို ဖယ်ရှားပစ်ရန်၊ သံတွင် ပေါင်းစပ်ပါရှိသော အောက်ဆီဂျင်ကို ထုတ်ပစ်ရန်နှင့် သံကိုမာသည်ထက်မာလာအောင် ပြုပြင်ပေးရန်တို့ဖြစ်၏။ သံရိုင်းကို လေပြင်းဖိုတွင်ထည့်၍ ကျိုသောအခါ တကြိမ်တည်းဖြင့် ဤလုပ်ငန်းသုံးမျိုးစလုံး ပြီးမြောက်သွားသည်။ ထိုသို့ကျိုရာ၌ ထုံးနှင့် ကျောက်မီးသွေးကို မီးဖိုထဲသို့ အချိုးကျရောပေးရ၏။ သံရိုင်းအရည်ပျော်သွားသောအခါ ထုံးသည် သံတွင်ပါရှိသည့် အညစ်အကြေးများနှင့်ပေါင်းစပ်၍ ချော်ဖြစ်သွား၏။ မီးဖိုထဲသို့ ထည့်ပေးရသော ကျောက်မီးသွေးအနက် အချို့မှာ ထင်းမီးဖြစ်သွား၍ အချို့မှာ သံရိုင်းအရည်ပျော်လာသောအခါ သံတွင်ပါရှိသည့် အောက်ဆီဂျင်နှင့် ပေါင်းစပ်ပြီးလျှင် ဓာတ်ငွေ့အဖြစ်ဖြင့် ထွက်သွားလေသည်။ ဤပြောင်းလဲမှုများ ဖြစ်နေစဉ် ကျောက်မီးသွေးမှ ကာဗွန်အနည်းငယ်ခန့်သည် သံနှင့် ပေါင်းစပ်သွား၍ သံကိုမာလာစေသည်။ (လေပြင်းဖို — ရှု။)

လေပြင်းဖိုသည် အလွန် ပြင်းထန်သော အပူကြောင့် ပျက်စီးသွားခြင်း မရှိစေရန် အတွင်းတွင် မီးခံအုတ်ဖြင့် ခံထားသည့် သံမဏိ အဆောက်အအုံကြီးဖြစ်၏။ အမြင့်မှာ ပေ ၉၀ ခန့် ရှိ၏။ မီးဖိုကြီးကို အထက်မှအောက်သို့ အလျားလိုက်ခွဲကြည့်ပါမူ မီးခိုးတိုင်ကြီးကဲ့သို့ တွေ့ရသည်။ မြေပြင်မှ မီးဖိုထိပ်သို့ ရထားငယ်များ တက်ရောက်နိုင်ရန် လမ်းငယ်တလမ်း ပြုလုပ်ထား၏။ ထိုရထားငယ်ဖြင့် သံ၊ ထုံးကျောက်နှင့် ကုတ်ကျောက်မီးသွေးများကို မီးဖိုထဲသို့ တထပ်စီ ဖြစ်နေအောင် လောင်းထည့်ပေးရ၏။ ဤသို့ လောင်းထည့်ပေးနေစဉ် မီးဖို၏အောက်ဖက်မှနေ၍ မီးဖိုထဲသို့ လေပူများကို အဆက်မပြတ် မှုတ်သွင်းပေးလေသည်။ သံရိုင်းသည် မီးဖိုထိပ်မှ အောက်ဖက်သို့ တဖြည်းဖြည်းဆင်းလာ၍ လေပူနှင့် တွေ့ထိလာသည့်အခါ တဖြည်းဖြည်း တိုး၍ ပူလာသည်။ မီးဖို၏အောက်ဖက်ဆုံး လေပူဝင်ရောက်ရာနေရာအနားတဝိုက်တွင်မူကား အပူဆုံးဖြစ်၍ သံမှာ အရည်ပျော်သွားပြီးလျှင် မီးဖို၏အောက်ဆုံးနေရာသို့ ထိုင်ကျသွားသည်။ ချော်သည်လည်း သံကဲ့သို့ပင် အရည်ပျော်၍ သံရည်၏မျက်နှာပြင်ပေါ်တွင် ပေါလောပေါ်နေလေသည်။ မီးဖိုမှ အရည်ပျော်နေသည့် သံကို လေးနာရီလျှင်တကြိမ်ခန့်စီ ထုတ်ယူ၍ ချော်ရည်ကိုမူကား ချော်ရည်ထုတ်ပေါက်မှ စွန့်ထုတ်ပစ်လိုက်သည်။ သံရည်ကျိုနေစဉ် အပူကိုလျှော့၍ ရပ်နားလိုက်ပါက အထဲမှပစ္စည်းအရောသည် ခဲသွားပြီးလျှင် မီးဖိုမှာ နောင်ကိုသုံးမရတော့ချေ။ ထိုကြောင့် သံရည်ကျိုစရှိသော ဖိုများတွင် ၁၂ ရာသီလုံး နေ့ရောညဉ့်ပါ မရပ်မနားပဲ လုပ်ကိုင်ကြရလေသည်။

လေပြင်းဖိုမှ ထုတ်ယူရရှိသော သံကို သွန်းသံဟု ခေါ်သည်။ သွန်းသံတွင် ရာခိုင်နှုန်း ၉၂ မှ ၉၄ အထိ သံပါရှိ၏။ သွန်းသံတွင် ကာဗွန်အချိုးအစားမှာ ရာခိုင်နှုန်း ၂.၆ မှ ၄.၃ အထိ ရှိတတ်၍ ဆီလီကွန် အချိုးအစားမှာလည်း ထိုလောက်နီးပါးမျှ ပါရှိလေသည်။ ထိုအပြင် မန်ဂနိ၊ ဖော့စဖောရပ်နှင့် ဆာလဖာတို့ကဲ့သို့ အညစ်အကြေးများလည်း အနည်းငယ်စီ ပါရှိသေး၏။ အရည်မှ အခဲသို့ ပြောင်းသောအခါ ကြွထတတ်သော သဘောရှိ၍ အသုံးအဆောင်များကို ပုံသွန်းယူရာ၌ သွန်းသံကို အသုံးပြုနိုင်၏။ သို့သော် သံတွင် ပေါင်းစပ်ပါရှိသည့် အညစ်အကြေးများကြောင့် အလွန်ကြွပ်ဆပ်သဖြင့် ပန်းဘဲများအသုံးပြုရန် မသင့်တော်ချေ။ သွန်းသံကို မီးဖိုများ၊ ပိုက်လုံးများနှင့် ရေဒီယေတာများ ပြုလုပ်ရာ၌ အသုံးပြု၏။

သွန်းသံမှ အညစ်အကြေးများကို ဖယ်ရှားလိုက်သောအခါ ချတ်သံကိုရ၏။ ချတ်သံတွင် သံရာခိုင်နှုန်း ၉၉.၈ မှ ၉၉.၉ အထိ ရှိတတ်၍ ကာဗွန်ရာခိုင်နှုန်း ၀.၃ မျှသာ ရှိ၏။ ဤသံပြုလုပ်နည်းကို ၁၇၈၄ ခုနှစ်တွင် ဟင်နရီ ကော့ အမည်ရှိသော ပဂ္ဂိုလ်ကြီးက စတင်တီထွင်ခဲ့၏။ သွန်းသံကို ချတ်သံသို့ ပြုပြင်ယူလိုသောအခါ မီးလှဲမီးဖိုကြီးများတွင် သံရိုင်းအနည်းငယ်နှင့်ရော၍ ကျိုပေးပြီးလျှင် နာနာမွှေပေးရသည်။ ထိုအခါ ဆာလဖာနှင့် ဖော့စဖောရပ်တို့သည် သံရိုင်းတွင်ရှိသည့် အောက်ဆီဂျင်နှင့် ပေါင်းစပ်၍ ချော်ဖြစ်သွားကြသည်။ ကာဗွန်မှာမူကား အောက်ဆီဂျင်

နှင့် ပေါင်းစပ်ပြီးလျှင် ဓာတ်ငွေ့အဖြစ်ဖြင့်ထွက်သွားသည်။ ချတ်သံကို ရဲနေအောင် မီးဖုတ်၍ အလိုရှိသော ပုံကို ထုရိုက်ယူနိုင်သောကြောင့် ပန်းဘဲများ အသုံးပြုကြ၏။ အလွန်မာသောကြောင့်လည်း ကျောက်ဆူးများ၊ သံကြိုးများ၊ တံခါးမင်းထုပ်များနှင့် သံဝိုင်ယာကြိုးများ ပြုလုပ်ယူနိုင်၏။ သွန်းသံကဲ့သို့ အလွယ်တကူအရည်မပျော်သဖြင့် ချတ်သံကို သံချောင်းများပြုလုပ်ရာ၌ အသုံးပြု၏။ ယခုအခါ များသောအားဖြင့် ချတ်သံကို ဗက်ဆီမာမီးဖိုဖြင့်ဖြစ်စေ၊ လေဖွင့်မီးဖိုများဖြင့် ဖြစ်စေ ပြုလုပ်လေ့ရှိကြ၏။

သွန်းသံထက်သန့်၍ ချတ်သံလောက်လည်း မစစ်သော သံကို သံမဏိဟုခေါ်၏။ သံမဏိ၌ ဆာလဖာ၊ ဖော့စဖောရပ်နှင့် ဆီလီကွန် လုံးဝကင်း၏။ သို့သော် ကာဗွန်ပါရှိသောအချိုးမှာ သွန်းသံထက်နည်း၍ ချတ်သံထက်ပို၏။ ကာဗွန် .၉ ရာခိုင်နှုန်းမှ ၁.၅ ရာခိုင်နှုန်းအထိ ပါရှိသည့် သံမဏိကို မီးဖြင့်ဆေးပေးသောအခါ အလွန်မာလာ၍ချတ်သံ၊ သွန်းသံနှင့် အခြားသတ္တုများကိုပင် ဖြတ်တောက်နိုင်၏။ ကာဗွန်ရာခိုင်နှုန်းကို လျှော့ပေးသောအခါ သံမဏိအပျော့စားကိုရ၏။ ဤသံမဏိဖြင့်သွန်းယူသော အသုံးအဆောင်များသည် အခြားသံဖြင့် သွန်းယူသော အသုံးအဆောင်များထက်ပို၍ ခိုင်ခံ့၏။ ကာဗွန်ရာခိုင်နှုန်းကို ထပ်၍ လျှော့လိုက်သောအခါ အဆောက်အအုံ ပစ္စည်းအသုံးအဆောင်များပြုလုပ်ရန် သံမဏိအပျော့စားကိုရ၏။သံမဏိသည် သွန်းသံကဲ့သို့မာ၏။ ကာဗွန်အလွန်မများလွန်းလျှင် ချတ်သံကဲ့သို့ ပန်းဘဲတင်နိုင်၏။ ထုရိုက်၍လည်း ဆက်ယူနိုင်၏။

ဖော့စဖောရပ်နှင့် ဆာလဖာ (ကန့်) ပါသော သံမဏိသည် ကြွပ်ဆပ်သဖြင့် အသုံးမဝင်ချေ။ ထို့ကြောင့် ရှေးအခါက လူတို့သည် သွန်းသံမှသံမဏိလုပ်လိုသောအခါ ပဌမ ချတ်သံပြုလုပ်၍ ချတ်သံမှတဖန် ဆီမင်တေးယှင်းခေါ် နည်းဖြင့် ပြုလုပ်ယူကြ၏။ ဤနည်းတွင် ချတ်သံကို တပေခန့်ရှည်သော အချောင်းများဖြစ်အောင် ဖြတ်တောက်၍ မီးခံလုံတွင် ထင်းမီးသွေးနှင့်အတူ လေလုံပိတ် ထည့်ပြီးလျှင် ခုနစ်ရက်မှ ၁၀ ရက်အထိ နီရဲနေအောင် အပူတိုက်ပေး၏။ ထို့နောက် လုံကို ရက်သတ္တတပတ်ခန့် တဖြည်းဖြည်း အအေးခံယူသည်။ လုပ်ငန်းပြီးဆုံးသောအခါ သံမဏိဘုံးတွင် အဖောင်းအဖုများကို တွေ့ရ၏။ သံလုပ်ငန်းတွင် ကျွမ်းကျင်သူတို့သည်ထိုအဖောင်းအဖုများကိုကြည့်၍ သံမဏိ၏အမျိုးအစားကို ချင့်ချိန်နိုင်ကြ၏။ ခရစ် ၁၇၄၀ ပြည့်နှစ်တွင် အင်္ဂလန်နိုင်ငံ ရှက်ဖီးမြို့မှ ဗင်ဂျမင် ဟန့်စမင် ဆိုသူသည် အဖောင်းအဖုပါသံမဏိကို ရွှံ့စေးလုံတွင်ကျို၍ သံမဏိအကောင်းစားတမျိုးကို ရရှိခဲ့၏။ ထိုသံမဏိကို လုံသံမဏိဟုခေါ်သည်။ လုံသံမဏိတွင် ကာဗွန်သည် မူလသံမဏိမှာကဲ့သို့ မညီမညာ ပြန့်မနေပဲ သံတတုံးလုံးတွင် သမလျက်ရှိသဖြင့် သံမဏိမှာ ပိုမိုကောင်းမွန်လာသည်။ ထိုအချိန်မှစ၍ ရှက်ဖီးအရပ်သည် စားပွဲဓားနှင့် အခြား ဖြတ်တောက်ရန် ကရိယာများ ပြုလုပ်ရာ၌ နာမည်ကျော်ကြားခဲ့၏။ ယခုအခါ သံမဏိကို လေဖွင့်မီးဖိုဖြင့် ပြုလုပ်ရရှိသည့် သံမဏိမှ ဖော်ယူကြ၏။ လုံမှာ ငယ်သဖြင့် တကြိမ်လျှင် ပေါင် ၆၀ မှ ၁၀၀ အထိသာ ရရှိနိုင်သည်။ ကာဗွန် အနည်းအများကိုလိုက်၍ လုံသံမဏိ အမျိုးမျိုးရှိ၏။ မုတ်ဆိတ်ရိတ်ဓား (ကာဗွန် ၁.၅ ရာခိုင်နှုန်း)၊ ကရိယာတန်ဆာပလာ (ကာဗွန် ၁ ရာခိုင်နှုန်း) နှင့် ညှပ်ပုံ (ကာဗွန် .၇၅ ရာခိုင်နှုန်း) တို့သည် အားလုံး လုံသံမဏိဖြစ်သော်လည်း သံမဏိအမျိုးအစားမှာ တခုနှင့်တခုမတူချေ။

သံမဏိကို ဆီမင်တေးယှင်းနည်းဖြင့် ပြုလုပ်သောအခါ စရိတ်ကြီးလေးသည့်ပြင် အချိန်လည်းကြာ၏။ ထို့ကြောင့် ရှေးအခါက သွန်းသံ၊သို့မဟုတ် ချတ်သံဖြင့်ပြုလုပ်၍ရသော ပစ္စည်းများကို သံမဏိဖြင့် အစားထိုးပြီးလျှင် အသုံးမပြုနိုင်ခဲ့ကြချေ။ သို့သော် ၁၉ ရာစုနှစ် အလယ်ပိုင်းတွင် အင်္ဂလိပ်လူမျိုး ဆာ ဟင်နရီ ဗက်ဆီမာဆိုသူ ပုဂ္ဂိုလ်ကြီးသည် အချိန်ကုန်သက်သာ၍ ငွေကုန်နည်းသည့်နည်းကို တွေ့ရှိခဲ့၏။ ထိုနည်းတွင် သွန်းသံကို လုံများတွင်ထည့်၍ အောက်တွင် ဆက်ထားသည့် ပိုက်လုံးများဖြင့် သံထဲသို့ လေမှုတ်ပေး၏။ ထိုအခါ သံတွင်ပါရှိသည့် မန်ဂနိ၊ ကာဗွန်နှင့် ဆီလီကွန်တို့မှာ မီးလောင်သွားပြီးလျှင် သွန်းသံသည် ချတ်သံအဖြစ်သို့ ပြောင်းသွား၏။ အညစ်အကြေးများ မီးလောင်ပြီးစီးသောအခါ ကာဗွန်ကို အချိုးအတိုင်းရောပေး၍ ချော်ကို ထုတ်ပစ်ပြီးလျှင် သံမဏိကို လောင်းယူရ၏။ ဗက်ဆီမာ ပဌမတီထွင်ခဲ့သောနည်းတွင် ဖော့စဖောရပ်ထုတ်ပစ်ရန် အစီအစဉ် မပါရှိသောကြောင့် ဖော့စဖောရပ် .၁ ရာခိုင်နှုန်းထက်ပိုမိုပါရှိသည့် သွန်းသံကို သံမဏိပြုလုပ်ရန် အသုံးမပြုနိုင်ပေ။ ၁၈၇၁ ခုနှစ်သို့ရောက်ရှိလာသောအခါ လုံ၏အတွင်းဖက်တွင် ထုံးနှင့် မက်ဂနီဇီယာ အရောကိုခံ၍ သံမှ ဖော့စဖောရပ် ထုတ်ပစ်သောနည်းကိုတွေ့ရှိခဲ့၏။ ထိုသို့တွေ့ရှိခဲ့သည်နှင့် မရှေးမနှောင်းပင် ဂျာမနီနိုင်ငံသည် အယ်လဆက် လိုရိန်းနယ်ကို ပြန်၍ သိမ်းပိုက်ခဲ့၏။ ဤနယ်တွင် သံအမြောက်အများ ထွက်ခဲ့သော်လည်း ထိုသံတွင် ဖော့စဖောရပ် .၃ ရာခိုင်နှုန်း ပါရှိခြင်းကြောင့် ရှေးအခါက အသုံးမဝင်ခဲ့ချေ။ ဂျာမနီလက်အောက်သို့ ရောက်ရှိပြီးမှသာ သံမှ ဖော့စဖောရပ် ထုတ်ပစ်နည်းကို သိရှိခဲ့ကြသဖြင့် ဥရောပတိုက်ရှိ နိုင်ငံများအနက် ဂျာမနီနိုင်ငံသည် သံမဏိလုပ်ငန်းတွင် အကြီးကျယ်ဆုံးနိုင်ငံဖြစ်ခဲ့လေသည်။ အထက်ဖော်ပြပါ သံမဏိထုတ်လုပ်နည်းကိုတီထွင်သူ ပုဂ္ဂိုလ်ကြီးအား အစွဲပြု၍ ဗက်ဆီမာနည်းဟု

ခေါ်၏။ ဗက်ဆီမာသံမဏိကို စက်၊ တန်တား၊ အဆောက် အအုံတို့နှင့် စပ်လျဉ်းသော အသုံးအဆောင်များ ပြုလုပ်ရန် အသုံးပြုကြ၏။ (ဗက်ဆီမာ ့ဆာဟင်နရီ — လည်းရှု။)

ဗက်ဆီမာ လုံ၏ ပုံသဏ္ဌာန်မှာ လည်တဖက်စောင်းနေသော ပုလင်းပုနှင့်တူ၏။ လုံသည် အချင်း ၁၀ ပေ၊ အမြင့်ပေ ၂၀ အသီးအသီး ရှိ၏။ ကိုယ်ထည်ကို သံမဏိဖြင့် ပြုလုပ်ထား၍ အတွင်းဖက်၌ အလွန်ပြင်းထန်သော အပူကိုခံနိုင်ရန် မီးခံပစ္စည်းဖြင့် စီမံထား၏။ သံမဏိကျိုရန် သွန်းသံတန်ချိန် ၃၀ ခန့် ထည့်ထားသော • လုံ၏အလေးချိန်မှာ တန် ၂၀၀ အထိပင် ရှိသည်။ လုံအောက်၌ လေသေတ္တာတလုံးရှိရာ ထိုသေတ္တာမှ လေပိုက်လုံးများသည် လုံနှင့် လုံ၏အတွင်းခံကိုဖောက်၍ အထဲသို့ ဝင်ရောက်၏။ လုံ၏ဘေးတဖက်တချက်မှ ထိုးထွက်လျက်ရှိသည့်သံချောင်းကြီးနှစ်ချောင်းသည် လုံကိုထောက်ပေါ်တွင် တည်မြဲနေစေနိုင်သည့်ပြင် ပွန်တွင်းရေဖိအားကို အသုံးပြု၍ဖြစ်စေ၊ လျှပ်စစ်ဓာတ်ကို အသုံးပြု၍ဖြစ်စေ လုံကို အလိုရှိရာအနေအထားသို့ ပြုပြင်ပေးနိုင်သည်။ သံမဏိကျိုရာတွင် ပဌမဆုံးလုံကို အလျားလိုက်စောင်း၍ သွန်းသံလောင်းထည့်ပေးရသည်။ ထိုနောက် လုံကို တဖြည်းဖြည်း ထောင်ယူ၍ လေမှုတ်ပေးလိုက်သည်နှင့် တပြိုင်နက် မီးပွင့်များစဉ်ထွက်လာပြီးလျှင် အထဲမှ နီဝါရောင်သန်းနေသည့် မီးတောက်တခု ထွက်ပေါ်လာသည်။ သံထဲသို့ လေကိုမှုတ်ပေးသောအခါ ပဌမဆုံး ဆီလီကွန်သည် အောက်ဆီဂျင်နှင့် ပေါင်းစပ်၍ ချော်ဖြစ်သွားသည်။ မိနစ်အနည်းငယ်ကြာသောအခါ ကာဗွန်သည် မီးလောင်ကျွမ်းလာသဖြင့် မီးတောက်သည် မျက်စိကျိန်းလောက်အောင် ဝင်းထိန်လာပြီးလျှင် လုံထဲ၌ရှိသည့် သတ္တုမှာလည်း ကျိုက်ကျိုက်ဆူလာသည်။ ဆယ်မိနစ်ခန့်ကြာသောအခါ သံတွင် ကာဗွန်ကုန်သွားပြီး ဖြစ်၍ လေပေါက်များကို ပိတ်ပစ်လိုက်ရ၏။ ချက်ချင်းပင် မီးတောက်မှာလည်း ငြိမ်းသွားလေသည်။ ထိုအခါ လုံကို စောင်းပေး၍ ကာဗွန်ကို လိုသလောက် ထည့်ပေးပြီးလျှင် သံမဏိကို ပုံစံခွက်များတွင် လောင်းယူသည်။

သံမဏိကျိုယူရန် အခြားနည်းတနည်း ရှိသေး၏။ ထိုနည်းကို လေဖွင့်မီးဖိုနည်းဟူ၍၎င်း၊ တီထွင်သူ ပုဂ္ဂိုလ်ကြီးအား အစွဲပြုပြီး ဆီမင်မာတင်နည်း ဟူ၍၎င်း ခေါ်၏။ ဤနည်း၏ အခြေခံသဘောမှာ သံတွင်လိုသောကာဗွန်ကို ချန်လှပ်ထား၍ အပိုအလျှံဟူသမျှကို မီးလောင်သွားစေခြင်းပင်ဖြစ်၏။ ထို့ကြောင့် သံမဏိကျိုနေစဉ် ကာဗွန်အချိုးအစားကို မကြာမကြာ စစ်ဆေးပေးရ၏။ သံမဏိတွင် လိုသည့် ကာဗွန်အချိုးအစားသို့ ရောက်သောအခါ ကျိုခြင်းကို ရပ်ဆိုင်း၍ သံမဏိကို ထုတ်ယူရသည်။ တကြိမ်ကျိုရာ၌ သံတန်ချိန် ၅၀ မှ ၇၅ အထိ ကျိုလေ့ရှိ၍ အချိန်ရှစ်နာရီမှ ၁၀ နာရီ အထိ ကြာတတ်သည်။ ဖိုမှာ ခွက်ပုံ၊ သို့မဟုတ် ပန်းကန်ပြားပုံသဏ္ဌာန် ရှိသည်။ သို့သော် အောက်ခြေတွင် အနောက်ဖက် ဖိုပိုင်ခေါင်း တပ်ဆင်ထားသည့် အပေါက်ဆီသို့ နိမ့်လျှောလျက် ရှိသည်။ သံမဏိကျိုရာ၌ ပူပြင်းသော မီး၏အဟုန်ကို ခံနိုင်ရန်အတွက် ဓာတ်ငွေ့နှင့် လေအရောကို သုံး၏။ ဤဖိုများတွင် အပူပြန်လည်ထုတ်ယူသည့် စံနစ်ကို အသုံးပြုကြသဖြင့် ထင်းမီးကုန် အလွန်သက်သာသည်။ အပူပြန်လည် ထုတ်ယူပုံစံနစ်မှာ အောက်ပါအတိုင်း ဖြစ်သည်။ မီးဖို၏ တဖက်တချက်တွင် အခန်းကြီးနှစ်ခန်း ရှိ၏။ ထိုအခန်းထဲ၌ ပုဆစ်ကွက်ပုံ အပေါက်များ ဖောက်ထားသော အုတ်နံရံများရှိ၏။ သံရည်ပူပေါ်မှ ထွက်လာသော ဓာတ်ငွေ့ပူကို ထိုအခန်း နှစ်ခန်းအနက် တခန်းတွင် ဖြတ်သန်းသွားစေသည်။ အုတ်နံရံနီရဲလာသောအခါ ဓာတ်ငွေ့ပူကို ထိုအခန်းတွင် ရပ်တန့်၍ အခြားအခန်းတွင် လွှတ်ပေးပြန်သည်။• ထိုသို့လွှတ်ပေးထားစဉ် နီရဲနေသော အုတ်နံရံများရှိသည့် အခန်းမှ ဖြတ်၍ မီးဖိုတွင်းသို့ လေနှင့် ဓာတ်ငွေ့သစ်ကို သွင်းပေးလေသည်။ ဤနည်းဖြင့် အလဟဿ ဖြစ်သွားမည့် အပူမှာ သံမဏိကျိုရာ၌ ပြန်လည် အသုံးဝင်လာသဖြင့် ထင်းမီးသွေးအတွက် ကုန်ကျမည့် စရိတ်ကို များစွာ သက်သာစေသည်။

ဆီမင်မာတင်နည်းမှာ နှေးသော်လည်း တခါကျိုချက်ရာတွင် အခြားနည်းမှာထက် သံမဏိ အရများသည်။ ဤသို့ အရများသဖြင့်လည်း ကြီးမားသော အထည်ပစ္စည်းများ သွန်းလုပ်ရာ၌ များစွာ အသုံးဝင်၏။ အချိန်ကြာသဖြင့်လည်း ကျိုချက်နေစဉ် သံမဏိ၏ ဓာတ်ဂုဏ်နှင့် ရုပ်ဂုဏ်များကို စမ်းသပ်စစ်ဆေးနိုင်သည်။ ဗက်ဆီမာနည်းမှာ ထင်းမီးအတွက် စရိတ်သက်သာသော်လည်း ယခုခေတ်တွင် ဤနည်းနှင့် သင့်တော်သည့် သတ္တုရိုင်းများ ရှားပါးသွားပြီဖြစ်၍ လေဖွင့်မီးဖိုမှာ တဖြည်းဖြည်း အသုံးများလာသည်။ ယခုခေတ်တွင် လုံသံမဏိနှင့် သံမဏိရောများကို များသောအားဖြင့် လျှပ်စစ်ဓာတ်ဖြင့် ကျိုယူကြ၏။ လျှပ်စစ်ဓာတ်ဖြင့် ကျိုယူရာတွင် အပေါဆုံးပစ္စည်းများကို အသုံးပြုနိုင်၍ အကောင်းဆုံးနှင့် အချိုးအစားတိကျမှန်ကန်ဆုံး သံမဏိကိုရ၏။ သို့သော် များသောအားဖြင့် သံမဏိကျိုယူရာတွင် ဗက်ဆီမာနည်းနှင့် လေဖွင့်မီးဖိုနည်းကိုသာ အသုံးများလေသည်။

လွန်ခဲ့သော အနှစ် ၃၀ ခန့်ကပင် လူတို့သည်အင်ဂျင်နီယာလုပ်ငန်း အမျိုးမျိုးအတွက် သံမဏိထက် အလွန်ခိုင်မာသည့် သံမဏိစပ်များကို ပြုလုပ်နိုင်ခဲ့ကြသည်။ ယခုခေတ် အင်ဂျင်နီယာ အလုပ်ရုံများတွင် အပူခံ သံမဏိဖြင့်

ပြုလုပ်သော ကရိယာများကို တွေ့မြင်နိုင်၏။ ထိုကရိယာများမှာ များသောအားဖြင့် သတ္တုများကိုဖြတ်တောက်ရာ၌ သုံးသည့် ကရိယာများဖြစ်၏။ အပူခံသံမဏိမှာ အလွန်မာလှသဖြင့် အသွားများ နီရဲနေစေကာမူ ရိုးရိုးသံမဏိနှင့် ချတ်သံများကို ဖြတ်တောက်နိုင်လေသည်။ အပူခံသံမဏိမှာ အခြားမဟုတ်၊ သံ၊ ကာဗွန်၊ တန်စတင်၊ ကရိုမီယမ်၊ မန်ဂနိနှင့် ဗာနေးဒီယမ်တို့ဖြင့် ရောစပ်ပြုလုပ်ရသော သံမဏိစပ်တမျိုးဖြစ်သည်။ ရှေးအခါက သတ္တုများကို စက်တင်ရာတွင် အချိန်များစွာ ကြန့်ကြာခဲ့၏။ ယခုအခါ အပူခံ သံမဏိအကျိုးကျေးဇူးကြောင့် အလုပ်မှာ လေးဆမှ ငါးဆအထိ ပို၍တွင်ကျယ်လာသဖြင့် အချိန်ကုန် ငွေကုန် အလွန်သက်သာလေသည်။ ကရိုမီယမ်ဖြင့် ရောစပ်ယူရသော ကရိုမီယမ် သံမဏိစပ်မှာ အလွန်ခိုင်မာသောကြောင့် သံချပ်ကာ အသုံးအဆောင်များနှင့် သံချပ်ကာများကို ဖျက်ဆီးနိုင်သည့် အမြောက်ဆန်များ ပြုလုပ်ရန် အသုံးပြုသည်။ အစွန်းခံ သံမဏိမှာ သံမဏိစပ်တမျိုးဖြစ်၍ ဤသံမဏိမျိုးဖြင့် ဓားကဲ့သို့ သံချေးကင်းစင်လိုသော ပစ္စည်းများကို ပြုလုပ်ယူကြသည်။

မော်တော်ကားများ၌ အသုံးပြုကြသည့် ဗာ့ (အဆို့ရှင်) များကို အပူခံနိုင်ရည်ရှိအောင် နစ်ကယ်နှင့် သံမဏိ ရောစပ်ထားသော နစ်ကယ် သံမဏိစပ်ဖြင့် ပြုလုပ်ကြရ၏။ နစ်ကယ်သံမဏိတမျိုးဖြစ်သော အင်ဗာခေါ် သံမဏိစပ်သည် အပူချိန်ပြောင်းလဲခြင်းကြောင့်ကြွလာခြင်း၊သို့မဟုတ် ကျုံ့ဝင်ခြင်းဟူ၍ အလျင်းလိုပင် မရှိသဖြင့် နာရီချိန်သီးတံများနှင့် သံမဏိပေကြိုးများပြုလုပ်ရာ၌အသုံးဝင်လေသည်။

**သံပရာ။** ။သံပရာသည် ရှောက်၊ လိမ်မော်၊ ကျွဲကော၊ ရှောက်ချို စသည်တို့နှင့်အတူ ရူတေးစီအီး မျိုးရင်းတွင် ပါဝင်၍ ယင်း၏ ရုက္ခဗေဒ အမည်မှာ စစ်တြပ် အော်ရင်တီဖောလီးယား ဖြစ်သည်။ သံပရာပင်၏ မူလပေါက်ရာဒေသမှာ အရှေ့အိန္ဒိယကျွန်းစု ဖြစ်သည်ဟု ယူဆကြ၍ ထိုမှတဆင့် မြန်မာနိုင်ငံအပါအဝင် အာရှတိုက် အရှေ့တောင်ပိုင်း တိုင်းပြည်များသို့ ယူဆောင် စိုက်ပျိုးကြလေသည်။ အာရှတိုက်မှ တဖန် အာဖရိက မြောက်ပိုင်းနှင့် ဥရောပတောင်ပိုင်းရှိ မြေထဲပင်လယ် ကမ်းခြေတလျှောက် တိုင်းပြည်များသို့ ပျံ့နှံ့သွားလေသည်။ ၁၆ ရာစုခေတ်ဦးပိုင်းလောက်တွင် စပိန်နှင့် ပေါ်တူဂီလူမျိုးတို့သည် သံပရာပင်မျိုးကို အမေရိကတိုက်နှင့် အနောက်အိန္ဒိယကျွန်းစုများသို့ စတင်ယူဆောင် စိုက်ပျိုးခဲ့ကြသဖြင့် ယခုအချိန်၌ အမေရိကန်ပြည်ထောင်စု၊ မက္ကဆီကိုပြည်နယ်နှင့် အနောက်အိန္ဒိယ ကျွန်းစုများတွင် သံပရာပင်ကို အမြောက်အမြား စိုက်ပျိုးထားကြသည်။


သံပရာပင်၏ အသီးနှင့် အရွက်များ

သံပရာပင်ကို မြန်မာနိုင်ငံတွင် အနှံ့အပြား စိုက်ပျိုးကြ၍ မြစ်ငယ်၊ ရွှေကျင်၊ မုတ္တမနှင့် တောင်ငူနယ်များတွင် အမြောက်အမြား စိုက်ပျိုးကြသည်။ ထိုနယ်များမှ အခြားနယ်များသို့ တင်ပို့ရောင်းချကြသည်။ မြန်မာနိုင်ငံတွင် သံပရာပင်ကို အစေ့စိုက်၍၎င်း၊မြေထုပ်စည်းနည်းဖြင့်၎င်း မျိုးပွားယူကြသည်။ မြေထုပ်စည်းနည်းဖြင့် စိုက်ပျိုးပါက အပင်ကြီးထွားမြန်၍ အသီးလည်းသီးမြန်သော်လည်း ဤနည်းဖြင့်မစိုက်ပဲ အစေ့မှ စိုက်ပျိုးကြသည်သာ များကြသည်။ သံပရာပင် စိုက်ပျိုးသောအခါ အတန်းလိုက် တပင်နှင့်တပင် အနည်းဆုံး ၁၅ ပေခန့်ခွာ စိုက်ပျိုးမှသာ အသီးများစွာ သီးနိုင်သည်။

သံပရာပင်သည် အပင်ပုမျိုးဖြစ်၍ အပင်အမြင့် ရှစ်ပေမှ ၁၅ ပေအထိသာ ရှိသည်။ အရွယ်မှာ ငယ်၍ စိမ်းဖျော့ဖျော့အရောင်ရှိသည်။ ဆူးတက်ကလေးများ ပေါသောအပင်ဖြစ်သည်။ စ၍စိုက်သည်မှ သုံးနှစ်၊ သို့မဟုတ် လေးနှစ်တွင် စ၍ သီးတော့သည်။ အသီးသည် အချိုငယ်၍ အချိုကြီးလျက်၊ အချိုမှာလုံး၍ အချိုသည် ဘဲဥပုံမျိုးဖြစ်သည်။ အရည်ရွှမ်း၍ ရှောက်သီးထက်ပို၍ ချဥ်၏။ အခွံပါး၍ အသီးမှည့်လာသောအခါ အရောင်မှာ စိမ်းဝါ

ဓါဖြစ်လာသည်။ သံပရာသီးမှ သံပရာရည်ကို ထုတ်ယူ၍ ဖျော်ရည်ပြုလုပ်ရန်နှင့် စားသောက်ဖွယ်ရာတို့၌ အနံ့အရသာ ဖြည့်စွက်ရန် အသုံးပြုကြသည်။ ဟင်းလျာများချက်ပြုတ်ရာ၌လည်း သံပရာရည်ကို အသုံးပြုကြသည်။ သံပရာခွံမှ အဆီထုတ်၍ ရသဖြင့် အနောက်အိန္ဒိယ ကျွန်းစုသည် ထိုသံပရာဆီထုတ်သည့်လုပ်ငန်း၏ အချက်အချာ ဒေသဖြစ်သည်။

သံပရာပင်သည် တဆဲ့နှစ်ရာသီပတ်လုံး အသီးမပြတ်ဟု ဆိုရသော်လည်း မိုးလများဖြစ်သည့် ဇွန်လမှ အောက်တိုဘာလအထိသည် အပင်၌ အသီးလှိုင်ဆုံး အချိန်ဖြစ်၍ အလုံးကလည်း ကြီးလာသည်။ မြန်မာနိုင်ငံမှ ထွက်သော သံပရာသီးမှာ ပြည်တွင်းသုံးအတွက် မလုံလောက်သဖြင့် အိန္ဒိယနိုင်ငံ မဒရပ်ပြည်နယ်မှ ဝယ်ယူတင်သွင်းခဲ့ရသေးသည်။ ယခုအခါ ပြည်တွင်းသုံး လုံလောက်အောင် ပိုမို စိုက်ပျိုးလာကြသည်။ သံပရာသီးကို သနပ်၊ ယို စသည်ဖြင့်လည်း ပြုလုပ်ကြသည်။ သံပရာဖျော်ရည်ကိုလည်း ပူပြင်းသည့် နွေအခါ၌ လူတို့ သောက်သုံးကြသည်။

**သံပိုင်း။** ။သံပိုင်းဆိုသည်မှာ မြန်မာဘာသာသက်သက်ဖြစ်၍ အစဉ်အဆက်ဖြစ်ခြင်း ဟူသော အဓိပ္ပါယ်နှင့် စာစောင်များ၏ အဆုံး၊ နိဂုံးလင်္ကာ ဟူသော အဓိပ္ပါယ်များကို ရသည်။

အစဉ်အဆက် ဖြစ်ခြင်းဟူသော အကြောင်းအရာကို "သံပိုင်း" ခေါ် ဝေါ် ရေးမှတ်ကြသည့် အထောက်အထားများမှာ ကိုးခန်းပျို့တွင် "မနုသမ္မတ၊ ရှေးကသံပိုင်း၊ ကျင့်ရိုးခိုင်းလျက်"ဟူ၍၎င်း၊ "စတုမဟာ၊ နတ်တို့ရွာ၌၊ တခါနတ်သက်၊ တထောင်ဝက်ကို၊ တွက်သော်လူ့နှစ်၊ ကိုးသန်းဖြစ်သည်၊ စင်စစ်သံပိုင်း တံထွာတည်း" ဟူ၍၎င်း လာရှိသည်။ အဆုံးနိဂုံး လင်္ကာကို "သံပိုင်း" ခေါ်ဝေါ် ရေးမှတ်ကြသည့် အထောက်အထားများမှာ အင်းဝမြို့၊ ကျောင်းတော်ကျောက်စာနိဂုံးတွင် "ကျာကျာကျော်ဟိုး၊ စာရင်းထိုးသည်၊ ကျောက်ရိုးရွှေစာ သံပိုင်းတည်း" ဟူ၍၎င်း၊ မဟာ သကျသီဟဘုရား၊ ခေါင်းလောင်းတော် စာနိဂုံးတွင် "ဥပဒေကြံသိုင်း၊ လွှမ်းရိုက်လှိုင်းသည်။ ။သံပိုင်းရွှေစာမော်ကွန်းတည်း"ဟူ၍၎င်း၊ နန်းစဉ် စာတော် စာရင်းအမှတ်အသားများမှာလည်း ပျို့၊ မော်ကွန်း၊ သံပိုင်း၊ လင်္ကာ စသည်များနှင့် ကျောက်စာ၊ စဉ့်စာ၊ ခေါင်းလောင်းစာ၊ ဆုတောင်းစာ စသည်များမှာ မည်သည့် စာကိုယ်စာသားပုဒ်ရေ မည်မျှ၊ နိဂုံး၊ သံပိုင်းပုဒ်ရေ မည်မျှ၊ နှစ်စုပုဒ်ရေ မည်မျှဟူ၍၎င်း ခွဲခြားမှတ်သား ရေးထားလျက်ရှိသည်။

စကားပြေမှာ ဖြစ်စေ၊ လင်္ကာမှာဖြစ်စေ အဆုံးနိဂုံးသံပိုင်းတိုင်းမှာ လေးလုံးစပ်လင်္ကာနှင့် ရေးသားမြဲဖြစ်သောကြောင့် စာကိုယ်နှင့် မတူပဲ အသံကို ပိုင်းခြားသည့်အတိုင်း သံပိုင်းဆိုသည်မှာ အဆုံးနိဂုံး လင်္ကာကို မှတ်ရမည်ဟု ပိဋကတ်တော်အုပ် အတွင်းဝန် မိုင်းခိုင်း မြို့စားမင်း ပြောကြား အမိန့်ရှိဘူးသည်ဟု ဆိုသည်။ ဤသို့ အတွင်းဝန်မင်း အမိန့်ရှိသည့်အတိုင်း မှန်–မမှန်၊ မှတ်သင့်–မမှတ်သင့်များကို စကားစပ်လျဉ်းမိ၍ ကျေးဇူးရှင် ဘုံကျော်ဆရာတော်ဘုရားကြီးထံ လျှောက်ထားဘူးရာ 'ယုတ္တိတန်၍ အထောက်အထား ရှိပါလျှင် လိုက်နာသင့်ပါ၏။ သို့ရာတွင် အချို့နေရာများမှာ စာကိုယ်တစောင်လုံးကိုပင် သံပိုင်းဆိုလိုသကဲ့သို့ စပ်ဆိုသော အချက်များလည်း အနည်းငယ်ရှိသေးသည်'ဟု အမိန့်တော် ရှိဘူးသည်ဟုလည်း ဆိုလေသည်။

သံပိုင်းသဘောအဓိပ္ပါယ် စပ်ဆိုစီကုံးပုံကို ထင်ရှားစေရန် ပုံစံမှာ။ ။"မျက်ရှင်ရောင်ပြို့၊ ရှိန်းရှိန်းညီသား၊ မြင့်မိုရ်ရပ်ခိုင်း၊ နှင်းပန်းနှိုင်းလျက်၊ စစ်ကိုင်းပင်းယှ၊ အင်းဝအောင်စည်၊ မင်းပွဲပြည်ကို........... ကျောက်ဆောင်လင်္ကာ၊ သံပိုင်းစာကို၊ မဟာသီလဝံသ............ပြည့်ဖြိုးနိဒါန်းအပြီးတည်း။"

(ရှင်မဟာသီလဝံသ စပ်ဆိုစီကုံး ရေးသားတော်မူသည့် ရတနာဗိမာန် ကျောင်းတော်-ကျောက်စာနိဂုံး သံပိုင်း)

ထို့ပြင် သံပိုင်းပုဒ်ကို မော်ကွန်းပုဒ်နှင့်လည်း ရောနှောပြီး စပ်ဆိုကြသည်လည်း ရှိကြသေး၏။ ပုံစံကား၊ သက္ကရာဇ် ၁၂၂၂ ခုနှစ်တွင် ဆီးဘန်းနီ ဆရာတော်ဘုရားရေးသားခဲ့သည့် မဟာဗောဓိ ကျောက်စာ သံပိုင်း၌ –

"ဗောဓိမဏ်လာ၊ ကွန့်ရွှန်းဖြာလျက်၊ စက္ကဝါအပိုင်း၊ မြမြလှိုင်းတည့်၊ ဆိုင်းဆိုင်းယှက်ပြီ....................ဘုရင့်ဆရာ၊ ထေရ်မဟာလျှင်၊ အက္ခရာထင်းလင်း၊ မော်ကွန်းထွင်းသည်၊ သလင်းရွှေစာ သံပိုင်းတည်း။"ဟု ရေးသား စီကုံးထားသည်။

သံပိုင်းကဗျာကို ရှေးအစဉ်အလာ အလေ့အထအားဖြင့် ဘုရားစေတီ၊ ကျောင်း၊ ကန်၊ ပလ္လင်၊ ဗောဓိပင် စသည်တို့ကို ပြုလုပ်ပြီးစီးရာ၌ နိဂုံးချုပ်အားဖြင့် မှတ်ယူကြစေခြင်းငှာ ရေးသားကြရိုး ရှိခဲ့လေသည်။

**သံပျင်မင်းသမီး။** ။သံပျင်မင်းသမီးသည် သက္ကရာဇ် ၅၃၆ ခုနှစ် ပုဂံမြို့၌ နန်းတက်တော်မူသော နရပတိစည်သူမင်း၏ အစ္စန်အဖျားဖြစ်သော သမီးတော်တပါးဖြစ်သည်။ နရပတိစည်သူ မင်းကြီး လက်ထက် ကျမ်းဂန်သင်မြောက်ကျနပြီးသော ပုဂ္ဂိုလ်တဦးသည် မင်းကြီး၏ အမြိတ်အစွန်းမင်းသမီး၌ တပ်မက်၍ မကျန်းမမာ ရပ်တည်ရာ မရအောင်ဖြစ်နေသည်ကို မင်းကြီးသိသဖြင့် အခိုင်အခံ့ သုံးဆောင်

လောက်သော ကျမ်းတစောင် ရေးနိုင်လျှင် ပေးစားမည်ဟု အမိန့်ရှိသောကြောင့် ဥာသ်ကျမ်း၏ အဖွင့်ဋီကာကိုပြု၍ မင်းကြီးထံ ဆက်၏။မင်းကြီးလည်း ကျမ်းကိုနှစ်သက်တော်မူသဖြင့် လူထွက်စေပြီးလျှင် မင်းသမီးနှင့် ထိမ်းမြားကာ မြေတိုင်းသံပျင် အရာကို ပေးသောကြောင့် သံပျင်အမတ်ဟု ထင်ရှားသည်။ မင်းသမီးလည်း သံပျင်မင်းသမီးဟု တွင်၍ ကျမ်းလည်း သံပျင်ဋီကာဟူ၍ တွင်သည်။ ဤကား "သာသနာလင်္ကာရ စာတမ်း"စသော ရှေး စာဟောင်း စာတမ်းများ၌ ရေးသားဖော်ပြချက် ဖြစ်သည်။

နှုတ်ဖြင့် အစဉ်အလာ တဖန် ဤသို့ ပြောလေ့ရှိပြန်သည်။ သက္ကရာဇ် ၅၉၆ ခုနှစ်တွင် နန်းတက်တော်မူသော ကျစွာမင်းကြီး လက်ထက်တွင်မှ သံပျင်ဋီကာ ပေါ်ပေါက်လာသည်ဟုဆိုသည်။ ကျစွာမင်းကြီးသည် ပိဋကတ်သုံးပုံကို ကိုးခေါက်ပြန်၍ သင်ကြားသဖြင့် တတ်မြောက်လှသောကြောင့် ရဟန်းသံဃာများကိုပင် တနေ့လျှင် ခုနစ်ကြိမ်စာသင်ကြား ပို့ချပေးသည်ဟုဆိုသည်။ ကျစွာမင်းကြီးသာမဟုတ်၊ သမီးတော်တပါးလည်း ခမည်းတော် နည်းတူ ပိဋကတ် တတ်မြောက်လှသောကြောင့် ရဟန်းသံဃာများကို တနေ့ ခုနစ်ကြိမ်ပင် သင်ကြားပြသ ပို့ချရသည်ဟုဆို၏။ စာပို့ချရာ၌မူ ထို ရဟန်း သံဃာတို့ မမြင်စေလိုသောကြောင့် မင်းသမီးလည်း အကာအရံ အတွင်းမှနေ၍ စာပို့ချရလေသည်။

တခါသော် ကျမ်းဂန်တတ် ရဟန်းတပါးသည် မင်းသမီး၏ အဆင်းအင်္ဂါ လက္ခဏာကို မြင်လိုလှသောကြောင့် ပို့ချသောစာတွင်"ဟိ ဇာလေဟေဟေးလား"ဟူသောတင်ါသည်တို့ ကွန်ကြိုးဆွဲရာတွင်ဆိုသော သီချင်းကို ရေးထည့်၍ ထား၏။ စာပို့ချပြီးနောက်"ဤ ပါဠိ ကျန်ပါသေးသည်"ဟု ရဟန်းက ဆို၏။ မင်းသမီးလည်း"ကျွန်ုပ်စာတွင် မရှိ" ဟု ဆို၏။ ရဟန်းက "ကြည့်လှည့်ပါ"ဆိုလျှင် မင်းသမီးလာ၍ ရဟန်း၏ စာကို ယူငင်ကြည့်ရှုလိုက်ပြီးသော် "အဟိ"၊ ယုတ်မာသော တံငါတို့သည်။ ဇာလေ၊ ကွန်တို့ကို။ဟေဟေး လား၊ ဆွဲကြ ငင်ကြကုန်၏"ဟူ၍ စကားနှင့် လျော်အောင် အနက်သမ္ဗန်ပြီးသည်၏ အဆုံး၌ ဝင်၍သွားလေ၏။

ရဟန်းလည်း မင်းသမီးကို မြင်ရသည်မှစ၍ တပ်မက်မောခြင်း ပြင်းစွာဖြစ်ပြီးသော် ရပ်တည်ရာမရ ဖြစ်ခဲ့၏။ အကြောင်းကို ခမည်းတော် ကျစွာမင်းကြီး သိတော်မူလေလျှင် ခေါ်တော်မူ၍ "ငါ့ သမီးတော်ကို လိုလျှင် ကျမ်းဂန်ပြုလေဦး"ဟု မိန့်တော်မူလိုက်၏။ ရဟန်းလည်း ကျမ်းဂန်တတ်မြောက်ပြီး ဖြစ်သောကြောင့် ကစ္စည်းသဒ္ဒါ ကျမ်းကိုဖွင့်ဆိုသော"ဥာသ်ကျမ်း၏ အဖွင့်ဋီကာ"ကျမ်းကို စီရင်၏။ မင်းကြီးလည်း ကျမ်းကို နှစ်သက်တော်မူသဖြင့် မြေတိုင်းသံပျင် အရာကိုပေး၍ သမီးတော်နှင့်ဆောင်နှင်း၏။ သံပျင်အမတ်ဟု တွင်ဘိ၏။ မင်းသမီးလည်း "သံပျင်မင်းသမီး"ဟု တွင်ပေ၏။ ဋီကာကျမ်းသည်လည်း"သံပျင်ဋီကာ"ဟု ယခုတိုင် ထင်ရှားလျက် ရှိလေသည်။

**သံဖြူ။** ။သမိုင်းမတင်မီ အလွန်ရှေးကျသော အခါက လူတို့သည် ကြေးနီနှင့် သံဖြူ၊ သို့မဟုတ် ခဲမဖြူ ရောစပ်ထားသော ဗရွန်း(ကြေးညို)ခေါ် သတ္တုစပ်ကို မိမိတို့လိုရာ လက်နက်အဖြစ် လုပ်ကိုင်ခဲ့သည်။ ထိုခေတ်ကတည်းက သံဖြူ ပေါ်ပေါက်လာခဲ့လေသည်။ သံဖြူသည် ဒြပ်စင်တခု ဖြစ်သည်။ အက်တမ်အမှတ်မှာ ၅၀ ဖြစ်၍ အက်တမ်အလေးဆမှာ ၁၁၈.၇ ဖြစ်သည်။

သံဖြူထွက်သည့် ဒေသများမှာ မလေးရှား ပြည်ထောင်စု၊ ဗိုလစ်ဗီးယားနိုင်ငံ၊ အင်ဒိုနီးရှားနိုင်ငံ၊ တရုပ်နိုင်ငံ၊ နိုင်ဂျီးရီးယားနိုင်ငံ၊ ဗြိတိန်၊ ဩစတြေးလီးယား နိုင်ငံ၊ တပ်စမေးနီးယားကျွန်း၊ တောင်အာဖရိကနိုင်ငံ၊ ယိုးဒယားနိုင်ငံ စသည်တို့ဖြစ်သည်။ ကမ္ဘာတဝှန်းလုံးမှ ထွက်သည့် သံဖြူအားလုံး၏ သုံးပုံတပုံမှာ မလေးရှား ပြည်ထောင်စုမှ ထွက်သည်။ မြန်မာ နိုင်ငံတွင်လည်း ကယားပြည်နယ်၊ မော်ချီးမိုင်းနှင့် သထုံ၊ မော်လမြိုင်၊ ထားဝယ်၊ မြိတ်ခရိုင်များတွင် သံဖြူထွက်သည်။

သံဖြူ ထုတ်ယူရသော သတ္တုရိုင်းများတွင် သံဖြူကျောက် (တင်းစတုန်း)မှာ အရေးကြီးဆုံး ဖြစ်၏။ သံဖြူသည် သတ္တုရိုင်း ကျောက်တုံးများထဲတွင် အနှံ့အပြားကြဲ၍ ပါဝင်သောကြောင့် သတ္တုရိုင်းအားလုံးကို ပဌမ မှုန့်မှုန့်ညက်ညက် ကြေအောင်ချေပြီးနောက် အထပ်ထပ် ဆေးကြော တိုက်ချွတ်ကာ အခြား အညစ်အကြေးများကို ထုတ်ပစ်ရသည်။ ထိုနောက် မီးဖိုထဲ၌ အပူပြင်း တိုက်ပေးခြင်းဖြင့် ကျန်နေသော မသန့်ရှင်းသည့် ဝတ္ထုတို့ကို ဖယ်ထုတ်သည်။ ထိုကဲ့သို့ ပြုလုပ်ပြီးသောအခါတွင် သံဖြူအစစ်ကို ရရှိလေသည်။

သံဖြူအစစ်မှာ အဖြူရောင်ဖြစ်၍ ရံဖန် ရံခါတွင်သာ အပြာရောင် အနည်းငယ်မျှ သန်းနေသယောင်ယောင် တွေ့ရ၏။သံဖြူသည် အတော်အတန် အရောင်တောက်၍ လေသလပ် ခံထားခြင်းဖြင့် ကြေးညှင်းတက်ခြင်း မရှိချေ။သံဖြူသည် ပုံဆောင်ခဲများ အနေဖြင့် တည်ရှိသော ဝတ္ထုတမျိုး ဖြစ်သည်။သံဖြူချောင်း တချောင်းကို ကွေးကြည့်ပါက ပုံဆောင်ခဲများအချင်းချင်း ပွတ်မိကြသည့်အသံကို ကြားနိုင်သည်။ အလွန်အလွန် အေးသော အပူချိန်တွင် သံဖြူသည် ကြွပ်ဆတ်လွန်း၍ အမှုန့်အဖြစ်သို့ပင် ပြောင်းလဲသွားတတ်၏။ သို့သော် သာမန်အပူချိန်များတွင် သံဖြူသည် အတော်ပင်ပျော့ပျောင်း၍အထုအရိုက်ခံသည်။ ဤသို့ အထုအရိုက်ခံနိုင်ခြင်းမှာသံဖြူ၏အရေးကြီးသောဂုဏ်တရပ်ဖြစ်သည်။

အလွန်ပါးလွှာသွားသည့် သံဖြူ ပြားဇာလေးများဖြင့် ချော့ကလက်၊ တော်ဖီ စသည်တို့ကို ရစ်ပတ်ထုပ်ထားသည်ကို တွေ့ကြရပေမည်။ ထို့ပြင် သွားတိုက်ဆေး၊ ပန်းချီဆေးဗူးတို့ကို ဖြစ်ညှစ်နိုင်စေရန် သံဖြူနှင့် ပြုလုပ်ထားသည်ကိုလည်း တွေ့ကြရပေမည်။ စည်သွတ် အစားအစာတို့ ထည့်ထားသည့် သံစည်ဗူးများသည် သံဖြူဖြင့် ပြုလုပ်ထားသည် ဆိုသော်လည်း သံဖြူအစစ် မဟုတ်ကြပေ။ အမှန်မှာ သံဗူးများဖြစ်၏။ သို့သော် သံသည် အစားအစာ၌ ပါရှိသော အက်ဆစ်ဓာတ်နှင့် တွေ့သောအခါ အစားအစာကို မကောင်းအောင် လုပ်တတ်သောကြောင့် သံပြားကို သံဖြူရည် စိမ်ကာ သံဖြူဖြင့် ဖုံးအုပ်ထားခြင်း ဖြစ်လေသည်။ သံဖြူသည် အစားအစာကို မည်သို့မျှ မထိခိုက်စေနိုင်ချေ။ ရှေးက သံဖြူကို ပြဒါးနှင့်ရောစပ်၍ ကြည့်မှန်၏ ကျောဖက်တွင် သုတ်လိမ်းခဲ့ကြ၏။ သံဖြူသည် စင်တီဂရိတ် ၂၃၁.၉ ဒီဂရီမျှလောက်တွင် အရည်ပျော်သောကြောင့် သံဖြူကို ခဲနှင့်ရောစပ်ကာ ဂဟေဆော်ရာ၌လည်း အသုံးပြုကြလေသည်။

သံဖြူကို သံဖြူအဖြစ်ဖြင့် အသုံးပြုနိုင်သည့်ပြင် သတ္တုစပ်အဖြစ်ဖြင့်လည်း အသုံးပြုနိုင်သည်။ သံဖြူကို ကြေးနီနှင့်၎င်း၊ ခဲနှင့်၎င်း၊ ခဲနှင့် အင်တီမိုနီတို့နှင့်၎င်း ရောစပ်၍ သတ္တုစပ်များ ပြုလုပ်နိုင်ပေသည်။ (သတ္တုစပ် — လည်းရှု။)

သံဖြူ၏ ဒြပ်ပေါင်းများတွင် ကလိုရင်းနှင့် ပေါင်းစပ်ထားသော တင်းတက်တြာကလိုရိုက် ဆိုသည့် အရည်ကို ပိုးထည်များ အလေးချိန်တိုးအောင် ဆိုးဆေး၌ ထည့်ရန် အတွက်၎င်း၊ စစ်မြေပြင်တွင် မီးခိုးလုံးကြီးများ ထုတ်ရန် အတွက်၎င်း အသုံးပြုကြလေသည်။

ယခုအခါတွင် ဗိုလစ်ဗီးယားနိုင်ငံ သံဖြူတွင်းများမှအပ အခြား အရပ်ရပ်ရှိ သံဖြူတွင်းတို့မှာ တနေ့ထက် တနေ့ အထွက် လျော့နည်း၍လာရာ သိပ္ပံပညာရှင်ကြီးများသည် နောင် နှစ်များမကြာမီအတွင်း၌ ကမ္ဘာတဝှန်းလုံးရှိ သံဖြူ အထွက် လုံးဝရပ်စဲသွားမည်ကိုပင် စိုးရိမ်နေကြလေသည်။

**သံဖြူဇရပ်မြို့။** ။အောက်မြန်မာနိုင်ငံ၊ တနင်္သာရီတိုင်း၊ ယခင် မော်လမြိုင်ခရိုင်အတွင်းရှိ သံဖြူဇရပ်မြို့သည် မော်လမြိုင် — ရေး မီးရထားလမ်း၊ မော်လမြိုင် — ကျိုက္ခမီမော်တော်ကားလမ်း၊ မော်လမြိုင် — ရေး မော်တော်ကားလမ်း တို့ ဆုံရာ၌ တည်ရှိသည်။ မော်တော်ကားလမ်းအားဖြင့် မော်လမြိုင်သို့ မိုင် ၄၀၊ ကျိုက္ခမီသို့ ၁၅ မိုင်၊ ရေးသို့ ၅၇ မိုင်၊ ထားဝယ်သို့ ၁၅၇ မိုင်၊ မြိတ်သို့ ၃၁၂ မိုင် အသီးအသီး ဝေးကွာသည်။ သံဖြူဇရပ်မြို့သည် ယခင်က ကျိုက္ခမီမြို့နယ်အတွင်းရှိ လူနေ အိမ်ခြေ စည်ကားသော ရွာကြီး တရွာမျှသာ ဖြစ်သော်လည်း ဒုတိယ ကမ္ဘာစစ်အတွင်းမှ



သံဖြူဇရပ်မြို့သည် ဤဇရပ်ကိုအကြောင်းပြု၍ မြို့အမည်ကိုမှည့်ခေါ် ထားခြင်း ဖြစ်သည်။

စ၍ ထင်ရှားလာပြီးလျှင် မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီး နောက်တွင် နယ်ပိုင်ရုံးစိုက် မြို့တမြို့ ဖြစ်လာခဲ့သည်။ ယင်းသည် ကျိုက္ခမီနှင့်နှိုင်းစာလျှင် လမ်းပန်းဆက်သွယ်ရေး အချက်အချာကျသဖြင့် အုပ်ချုပ်ရေးအတွက် ပို၍အဆင်ပြေမည် ဖြစ်သောကြောင့် ယင်းသို့ သံဖြူဇရပ်ကို နယ်ပိုင်ရုံးစိုက်မြို့အဖြစ် တိုးမြှင့်ခဲ့ခြင်း ဖြစ်လေသည်။ ယခုအခါတွင်မူ တနင်္သာရီတိုင်း - ၁၊ သံဖြူဇရပ်မြို့နယ်၏ ရုံးစိုက်မြို့ဖြစ်၏။

သံဖြူဇရပ်မြို့သည် ကုန်းပြင်မြင့်ပေါ်တွင် မြို့တည်ထား၍ မြို့ပတ်လည် အရပ်လေးမျက်နှာ၌ ရော်ဘာခြံများ ရှိသည်။ မြို့၏အလား လေးရပ်မှာ အရှေ့ဖက်၌ အင်ကြင်းတောင်၊ အနောက်ဖက်တွင် ကျိုက္ခမီသွား ကားလမ်း၊ မြောက်ဖက်တွင် ဖောင်စိန်ရွာတို့ရှိပြီးလျှင် တောင်ဖက်တွင် ရေးသွား မီးရထားလမ်းနှင့် ယင်းမှ ခွဲထွက်ကာ ဂျပန်ခေတ်တွင် ဆောက်လုပ်ခဲ့သော ယိုးဒယား–မြန်မာနယ်စပ် မီးရထားလမ်းဟောင်းတို့ တည်ရှိလေသည်။ မြို့၏ ဧရိယာ အဖြစ် သတ်မှတ်ထားသော အကျယ်အဝန်းမှာ ၁၃၉ စတုရန်းမိုင် (ဧက ၇၉၀ ခန့်)ရှိ၍ မြို့ပေါ်ရှိ လူဦးရေသည် ၁၁,၅၂၃ ယောက် (၁၉၆၃ ခုနှစ်)ဖြစ်ရာ ဗုဒ္ဓဝါဒီ မွန်လူမျိုးတို့သည် အများစုဖြစ်ပေသည်။

မြို့ပေါ်တွင် ကြံခိုင်ရေးရပ်ကွက်၊ အောင်ချမ်းသာ ရပ်ကွက်၊ စက်သစ်ပိုင်း ရပ်ကွက်၊ ကိုးနဝင်း ရပ်ကွက်၊

ကျောင်းပိုင်း ရပ်ကွက်၊ အနောက်ရထာရပ်ကွက်၊ အောင်ဇေယျရပ်ကွက်၊ အောင်မင်္ဂလာရပ်ကွက်၊ ကြာကန်ရပ်ကွက် စသည်ဖြင့် ရပ်ကွက်များ ပိုင်းခြား၍ အကွက်ရိုက်ကာ မြို့တည်ထားပေသည်။ မြို့ပေါ်တွင် နယ်ပိုင်ဝန်ထောက်ရုံး၊ နယ်စီးရဲဝန်ထောက်ရုံး၊ ရဲဌာန၊ မြေစာရင်းဌာနရုံး၊ သစ်တောရုံး၊ ဆားခွန်တော်ရုံး၊ ပညာအုပ်ရုံး၊ ယစ်မျိုးရုံး၊ သမဝါယမရုံး၊ လူဝင်မှုကြီးကြပ်ရေးရုံး စသည်တို့ဖြင့် သိုက်မြိုက်စည်ကားစွာ ရှိသည်။ အစိုးရ အထက်တန်းကျောင်းတကျောင်းနှင့် မူလတန်းကျောင်း ငါးကျောင်းရှိသည်။ သံဖြူဇရပ်မြို့၏ ပြည်သူ့ဆေးရုံကို ၁၉၆၃ ခုနှစ် ဒီဇင်ဘာလတွင် ဖွင့်လှစ်ခဲ့လေသည်။

မြို့ပေါ်နှင့် ဆင်ခြေဖုံးတွင် ရွာလယ်ကျောင်းစေတီ၊ အင်ကြင်းတောင်စေတီ၊ ကင်မွန်းဘုန်းကြီးကျောင်း၊ ကြာကန် ဘုန်းကြီးကျောင်း၊ ရွှေကျင်တောရ စသော သာသနိက အဆောက်အအုံများဖြင့် သိုက်မြိုက်စွာ ရှိသဖြင့် သာသနာ့ရောင်ဝါ ထွန်းလင်းသော မြို့တမြို့ ဖြစ်ကြောင်း သိသာပေသည်။ မြို့၏ အနောက်မြောက်ပိုင်း၌ ရှိသော ကြာကန်အင်းကြီးသည် ၃၀ ကေကျော်ရှိသည်။ မြို့တွင်းနှင့် ဆင်ခြေဖုံးတွင် ဆန်စက်၊ ရေဘဝစက်များ ရှိ၍ အရောင်းအဝယ် လုပ်ငန်း ကိုင်ငန်းဖြင့် စည်ကားသော မြို့တမြို့ ဖြစ်သည်။

သံဖြူဇရပ်ဟူ၍ ခေါ်တွင်ခြင်းမှာ ထိုအရပ်၌ အိမ်ခြေရွာခြေ စတင် တည်ထောင်သော ခရစ်နှစ် ၁၉၀၀ ကျော်ခန့်က မော်လမြိုင်–ထားဝယ် ကြေးနန်းလမ်းဘေး၊ ယခုဈေးတန်း တည်ဆောက်ထားသောနေရာ လမ်းဘေးတွင် အရပ်ရှစ်မျက်နှာအလိုက် ထောင့်ရှစ်ထောင့်ရှိ၍ အောက်ခံအုတ်ခင်း အင်္ဂတေ ကိုင်ထားပြီးလျှင် သွပ်မိုးထားသော ဇရပ်(စရပ်)တဆောင်ရှိခဲ့သည်။ ထိုသွပ်မိုးဇရပ်ကို အစွဲပြု၍ ခေါ်တွင်ခဲ့ခြင်း ဖြစ်လေသည်။

သံဖြူဇရပ်၏ အမည်သည် ဒုတိယ ကမ္ဘာစစ်အတွင်းက မြန်မာနိုင်ငံတဝှန်း၌ လူပြောများခဲ့သော အမည်တရပ်ဖြစ်ခဲ့ရလေသည်။ ဂျပန်တို့သည် အာရှတိုက်ကို စိုးမိုးရေးအတွက် အထောက်အကူပြုနိုင်မည့် ယိုးဒယား–မြန်မာနယ်စပ်ကို ဆက်သွယ်နိုင်ရန် သံဖြူဇရပ်မှ ဘုရားသုံးဆူတောင်ကြားလမ်းအထိ မိုင် ၁၀၀ ရှည်လျားသော မီးရထားလမ်းကို ဒလကြမ်း ဆောက်လုပ်ခဲ့ရာ၊ ထိုရထားလမ်း ဖောက်လုပ်ရေးတွင် သံဖြူဇရပ်သည် အရေးပါသော စခန်းဖြစ်ခဲ့သည်။ မြန်မာနိုင်ငံအရပ်ရပ်မှ လူပေါင်းများစွာကို ချွေးတပ်သားများအဖြစ် ဆင့်ခေါ်၍ စေခိုင်းခဲ့ရာ တော အထပ်ထပ် တောင် အထွေထွေကို ဖောက်ထွင်း ဆောက်လုပ်ရသော မီးရထား လမ်းဖြစ်၍ တောကြီးမျက်မည်းအတွင်းဖြစ်သဖြင့် ငှက်ဖျား ထူပြောလှခြင်း၊ ချွေးတပ်သားတို့သည် လူလိုသူလို မနေထိုင်ခဲ့ရခြင်း၊ စားနပ်ရိက္ခာ မလုံလောက်ခြင်းတို့ကြောင့် ငှက်ဖျား၊ ယားနာ၊ ဝဲနာ စသော ရောဂါမျိုးတို့ကြောင့်၎င်း၊ ပင်ပန်းလွန်းလှသောကြောင့်၎င်း ချွေးတပ်သား မြောက်မြားစွာ ပျက်စီးသေဆုံးခဲ့ကြရသည်။ ယင်းသို့ အသက်ပေါင်းများစွာ အသေခံ၍ ဆောက်လုပ်ခဲ့ရသဖြင့် ထိုရထားလမ်းကို သေမင်းတမန် လမ်းကြီးဟု ခေါ်ဝေါ်ခဲ့ကြလေသည်။ သံဖြူဇရပ်သည် ထိုမီးရထားလမ်းနှင့် စပ်လျဉ်း၍ ထိုအချိန်အခါမှစပြီးလျှင် လူနှုန်း များပြား စည်ကားလာခဲ့လေသည်။ ထိုမီးရထားလမ်းကိုမူ တော်လှန်ရေး အစိုးရ လက်ထက်တွင် သံလမ်းများကို ရဲဘော်ဟောင်းများ အကူအညီဖြင့် ဖြုတ်ယူ၍ ထိုသံလမ်းများကို မီးရထားလမ်းများ၌ အသုံးပြုရန် မီးရထားဌာနက စီစဉ်ဆောင်ရွက်လျက် ရှိလေသည်။

သံဖြူဇရပ်မှ ကျိုက္ခမိသွား ကားလမ်းတောင်ဖက်တွင် အင်္ဂလိပ်စစ်သင်္ချိုင်းတခုရှိသည်။ ဒုတိယ ကမ္ဘာစစ်အတွင်း၌ မြန်မာနိုင်ငံ စစ်မျက်နှာ၌ ကျဆုံးခဲ့သော မဟာမိတ်တပ်သားအချို့ကို မြှုပ်နှံရာ သင်္ချိုင်းဖြစ်၍ ဧရိယာ ၂၅ ကေကျော်ရှိ၏။ ထိုသင်္ချိုင်း၏ မြောက်ဖက်တွင် ဧရိယာ ငါးကေကျော်သော မြန်မာစစ်သင်္ချိုင်းရှိလေသည်။

သံဖြူဇရပ်မြို့နယ်ကို အရှေ့ဖက်၌ ကြာအင်းဆိပ်ကြီးမြို့နယ်က၎င်း၊ အနောက်ဖက်၌ ကျိုက္ခမိ မြို့နယ်က၎င်း၊ မြောက်ဖက်၌ မုဒုံမြို့နယ်က၎င်း၊ တောင်ဖက်၌ ရေးမြို့နယ်က၎င်း အသီးအသီးဝန်းရံထားလျက် ရှိသည်။ ယင်းမြို့နယ်၏ အကျယ်အဝန်းသည် ၃၂၇ စတုရန်းမိုင် ကျော်ကျော်ရှိ၍ ကျေးရွာ အုပ်စုပေါင်း ၂၁ ရွာ ပါဝင်သည်။ မြို့နယ်တခုလုံးတွင် လူဦးရေသည် ၇၇,၀၀၀ ယောက်(၁၉၇၂ ခုနှစ်ခန့်မှန်းခြေ)ရှိသည်။ မွန်ဒေသဖြစ်သည့် အားလျော်စွာ မွန်လူမျိုးဦးရေသည် အများဆုံးဖြစ်သည်။ မြို့နယ်အတွင်း နေထိုင်ကြသူများသည် ဆန်စပါးကို အဓိက စိုက်ပျိုးကြသည်။ ရော်ဘာခေါ် ကြက်ပေါင်စေး ခြံများကိုလည်း အများအပြား စိုက်ပျိုးလုပ်ကိုင်ကြသည်။ စိုက်ပျိုးရေး လုပ်ငန်းမှလွဲလျှင် ဆားချက်လုပ်ငန်း၊ ရော်ဘာစေးလုပ်ငန်း၊ ထင်းလုပ်ငန်း၊ ငါးဖမ်းလုပ်ငန်းတို့သည် သံဖြူဇရပ် မြို့နယ်လူထု၏ အသက်မွေးဝမ်းကျောင်း လုပ်ငန်းများ ဖြစ်လေသည်။

မြို့နယ်အတွင်း မီးရထားလမ်းနှင့် မော်တော်ကားလမ်းတို့သည် သယ်ယူပို့ဆောင်ရေးနှင့် ကူးသန်းသွားလာရေးအတွက် အဓိက လမ်းကြောင်းများ ဖြစ်ကြသည်။ မော်လမြိုင်–ကျိုက္ခမိ မော်တော်ကားလမ်း (အောင်ဆန်းလမ်း)သည်၎င်း၊ ပသွား မော်တော်ကားလမ်းသည်၎င်း၊ မော်လမြိုင်–ရေး မီးရထားလမ်းသည်၎င်း သံဖြူဇရပ်မြို့တွင်းကို ဖြတ်သွားကြလေသည်။

သံဖြူဇရပ်သည် မော်လမြိုင်ခရိုင် (ယခင် ကျိုက္ခမီခရိုင်)၊ သံဖြူဇရပ်ခရိုင်ခွဲ၏ မြို့နယ်တခုဖြစ်ခဲ့၍ ထိုသံဖြူဇရပ်ခရိုင်ခွဲတွင် ပါဝင်ခဲ့သော အခြားမြို့နယ်တို့မှာ မုဒုံမြို့နယ်နှင့် ရေးမြို့နယ်တို့ ဖြစ်ကြလေသည်။

**သမ္ဗန္ဓ။** ။ပုဒ်တို့ကိုဖြစ်စေ၊ ဝါကျတို့ကိုဖြစ်စေ ဆက်စပ်ပေးသော စကားရပ်ကို သမ္ဗန္ဓဟု ခေါ်သည်။ သမ္ဗန္ဓ၏ အနက်မှာ ဆက်စပ်ခြင်းဟု ရ၏။

သမ္ဗန္ဓ နှစ်မျိုးရှိသည်။ သမာနသမ္ဗန္ဓနှင့် နိဿိတသမ္ဗန္ဓတို့ ဖြစ်သည်။ သမာန သမ္ဗန္ဓဆိုသည်ကား သဘောတူသည့် ပုဒ်ဝါကျတို့ကို ဆက်စပ်ရန် သုံးခြင်းဖြစ်သည်။ နိဿိတ သမ္ဗန္ဓဆိုသည်ကား သဘောမတူသည့်ဝါကျတို့ကို ဆက်စပ်ရန် သုံးခြင်း ဖြစ်သည်။

သမ္ဗန္ဓများသည် အကြောင်း အမျိုးမျိုးကို ဖော်ပြသည်။ ထပ်တိုးခြင်း၊ ခွဲခြားခြင်း၊ သို့မဟုတ် ရွေးချယ်ခြင်း၊ ဆန့်ကျင်ဖက်ပြခြင်း၊ အကျိုးအကြောင်း ဆက်စပ်ခြင်း စသည်တို့ကို ဝါကျတခု၌ သမ္ဗန္ဓဖြင့် ထင်ရှားအောင် ပြနိုင်ပေသည်။

ဥဒါဟရုဏ်၊ ဤကျောင်းသား စာကျက်သည်။ ထို့အတူပင် ထိုကျောင်းသား စာကျက်သည်။

မောင်လှသည် ပညာတော်ရုံသာမက ကစား ခုန်စားဖက်၌လည်း ဗိုလ်ဆွဲသူတဦးဖြစ်သည်။

သူ့လက်ထဲ၌ ဈေးခြင်းတောင်းအပြင် လွယ်အိတ်တခုလည်း ပါလာလေသည်။

ထိုဝါကျများ၌ သမ္ဗန္ဓများသည် ထပ်၍ တိုးခြင်းကို ပြသည်။

သင်စာကြိုးစားလျှင် ကြိုးစား၊ သို့မဟုတ်လျှင် စာမေးပွဲကျလိမ့်မည်။

ဤလုံချည်နှစ်ထည်အနက် သင်နှစ်သက်ရာ တထည်ကို ယူပါ။

ဤဝါကျများ၌ သမ္ဗန္ဓများသည် ခွဲခြားခြင်း၊ ရွေးချယ်ခြင်းတို့ကို ဖော်ပြသည်။

ဆန့်ကျင်ဖက်ကို ပြသော သမ္ဗန္ဓများမှာ အောက်ပါအတိုင်းပင် ဖြစ်သည်။

ဤမိန်းမပျိုသည်လှသော်လည်း အကျင့်မကောင်းပေ။
သူသည် ချမ်းသာကြွယ်ဝသော်လည်းမရောင့်ရဲနိုင်ချေ။

အကျိုးအကြောင်း ဆက်စပ်ပုံကို ပြခြင်းအတွက် ဥဒါဟရုဏ်မှာ —

သူသည် စာကြိုးစားသောကြောင့် စာမေးပွဲအောင်လာသည်။

ထို့ပြင် သမ္ဗန္ဓများသည် အချိန်နှင့် နေရာကိုပြခြင်း၊ အကျိုးအကြောင်း ဖော်ပြခြင်း၊ အခြေအနေ နှိုင်းရှည့်ချက် စသည်တို့ကို ပြခြင်းဟူ၍လည်း အမျိုးမျိုး ရှိလေသေးသည်။

ဥဒါဟရုဏ်—ရထားမထွက်မီ သူရောက်လာသည်။ မိုးရွာသောအခါ ရေခံမည်။ (အချိန်)

ရေရနိုင်သော နေရာသို့ရောက်မှ ကျွန်ုပ်တို့ နားကြစို့။ (နေရာ)

သီလကို မစောင့်ထိန်းခဲ့ကြသောကြောင့် အသက်တိုကြ၏။ (အကျိုး)

ထီပေါက်လျှင် ဒါနများ ပြုမည်။ (အခြေအနေ)

ဤသူငယ်ထက် ထိုသူငယ်က ပို၍ အရပ်မြင့်သည်။ (နှိုင်းရှည့်ခြင်း)

**သမ္ဗုဒ္ဓေစေတီ။** ။သမ္ဗုဒ္ဓေစေတီတော်ကြီးကို ကျေးဇူးရှင် မိုးညှင်းဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၃၀၁ ခုနှစ် ဝါဆိုလဆန်း ၅ ရက်နေ့မှစတင်၍ မုံရွာမြို့နယ် မြေနဲ၊ အောင်သာ၊ဆည်ကြီး၊ မင်ရွာတို့အလည်ရှိ ၃၇ ဧက ကျယ်ဝန်းသော မိုးညှင်းတောရတိုက်တော်ကြီးအတွင်း၌ တည်ဆောက်လာခဲ့ရာ ၁၃၃၄ ခုနှစ် တပေါင်းလဆုတ် ၃ ရက်နေ့တွင် လုံးဝပြီးစီး အောင်မြင်ခဲ့လေသည်။ ယင်းစေတီတည်ဆောက်ရာ၌ ဆရာတော်ဘုရားသည် မည်သည့် အင်ဂျင်နီယာများ၏ အကူအညီကိုမျှ မယူပဲ မိမိစိတ်ကူးနှင့်ပင် ကြံစည်ရသမျှ ထင်မြင်လာသည့်အတိုင်း တိုက်ကြပ်ဘုန်းတော်ကြီး ဦးနာရဒနှင့် ပန်းရန် ဆရာဟန်ကြီးတို့အား မည်သို့မည်ပုံ မည်ဆည့်နည်းစသည့် နည်းလမ်းစံနစ် ပုံစံများကို စာနှင့်တဖုံ၊ နှုတ်နှင့်တမျိုး ရှင်းလင်းပြသကာ တိုင်းပြည်နှင့်တကွ တည်ဆောက်လာရာ ငွေပေါင်း ၁၁ သိန်းကျော်မျှ ကုန်ကျလေသည်။

စေတီတော် တည်ဆောက်ဆဲ ဒုတိယကမ္ဘာစစ်အတွင်း ဂျပန်ခေတ်နှင့် ကြုံကြိုက်နေသော်လည်း စေတီတော်ကြီး၏ တန်ခိုးတော်၊ ဆရာတော်ဘုရား၏ မေတ္တာတော်တို့ကြောင့် ထုံး၊ သံထည်ပစ္စည်းများ၊ ဗိလတ်မြေ၊ ဆေးဗူးများကို အခက်အခဲမရှိ အလွယ်တကူရရှိသဖြင့် ပန်းရန်အဖွဲ့ပေါင်း ၄၀ ကျော် ၅၀ မျှနှင့် အဆက်မပြတ် လုပ်ကိုင်လာနိုင်ခဲ့သည်။ ကျောင်းတိုက်အနီးရှိ မြေကွက်များတွင် အုတ်ဖိုပေါင်း ၂၀၀ ကျော်မျှ ရှိခဲ့ရာ အုတ်များလည်း အဆက်မပြတ် ရရှိခဲ့လေသည်။

သမ္ဗုဒ္ဓေစေတီတော်၏ ပုံတော်သည် အခြားမည်သည့် စေတီတော်များနှင့်မျှ ပုံသဏ္ဌာန် မတူပဲ တမူထူးခြား၍ ထူးကဲအံ့ဩဖွယ် ကောင်းလှပေသည်။ စေတီတော်ကြီး၏ ဖိနပ်တော်မှာ စတုရန်းဖြစ်၍ အလျား ၁၁၁ တောင်နှင့် အနံ ၁၁၁ တောင်စီရှိရာ အလယ်ဗဟိုတွင် ဥာဏ်တော် ၈၈ တောင်ရှိ ရွှေရောင်ဝင်းသော သမ္ဗုဒ္ဓေမဏ္ဍိုင် စေတီ



မုံရွာမြို့နယ် မိုးညှင်းတောရအတွင်း တည်ဆောက်ကိုးကွယ်ထားသည့် သမ္ဗုဒ္ဓေစေတီတော်ကြီး

တော်ကို တည်ထားသည်။ စေဘီတော်၏ တဖက်တွင် အလျား ၁၁၁ တောင်၊ အနံ ၅၂ တောင်၊ အမြင့်ဉာဏ် တော် ၃၆ တောင်ရှိ အာရုံခံ တန်ဆောင်းကြီးတခုနှင့် ယှင်းနှင့်စပ်၍ အလျား ၅၇ တောင်၊ အနံ ၅၂ တောင် နှင့် အမြင့် ၃၆ တောင်ရှိ စောင်းတန်းတခု ရှိသည်။ သမ္ဗုဒ္ဓေစေတီဖက်၌ စေတီတော် ကြီးယံပေါင်း ၄၇၁ ဆူ နှင့် စောင်းတန်းတော်အာရုံခံဖက်၌ ၃၉၃ ဆူရှိရာ စေတီ တော်ကြီးကို အဝေးကနေ ဖူးလျှင် စေတီရံပေါင်း ' ၈၆၄ ဆူနှင့်တကွ အလွန်ပနံရသော သမ္ဗုဒ္ဓေစေတီတော်ကြီး ကို စောင်းတန်း အာရုံခံကြီးများနှင့်အတူ ထင်းထင်းကြီး တွေ့မြင်ရသည်။

စေတီကြီး၏ ဘေးပတ်လည်တွင် တံခွန်တိုင် ၂၀၊ တိရ တနာ၁ပါဒ သုံးဆူ၊ နရသီဟ လေးစီး၊ မနုသီဟ လေးစီး၊ သမုဒ်ပလ္လင် ၁၄ လုံး၊ ခြသေ့် ၁၄ စီးရှိသည်။ ဓာတ်တော် တည်ရာ ဌာနပေါင်း ၁,၄၈၆ ဌာနတို့၌ မြတ်စွာဘုရားဓာတ် တော်ပေါင်း ၃၈,၉၀၀ နှင့် ရဟန္တာ ဓာတ်တော်ပေါင်း ၈၁,၅၀၀ တို့ကို အန္တရာယ်ကင်းကြီးများနှင့်တကွ တည် ထားကိုးကွယ်သည်။ သမ္ဗုဒ္ဓေစေတီနှင့် စောင်းတန်းအာ

ရုံခံအံ့တွင်းတို့၌ တောင်ပြည့်ထိုင်တော်မူ ၆၈ ဆူနှင့် ရပ်တော်မူ ၂၉၆ ဆူ ရှိ၏။ ဘေးကင်းရန် ဝိသေသခုခု ဘုရားတို့ကား စေတီတော်ဖက်၌ အဆူ ၅၀၀၊ အာရုံခံဖက်၌ ၇၅၆ ဆူ နှင့် စောင်းတန်းဖက်၌ ၄၃၇ ဆူ ပေါင်း ၁,၆၉၄ ဆူရှိ၏။

စေတီတော်ကြီး၏ အတွင်း၌ အပြင်ထပ်၊ အလယ်ထပ်၊ အတွင်းထပ်ဟူ၍ အထပ်သုံးထပ်ရှိ၍ လှုပရိသတ်ထောင်ပေါင်းများစွာဆံ့အောင် ရှိခိုး နေထိုင်နိုင်ကြသည်။ တိုက်ခန်းနံရံတွင် သုံးလက်မ၊ လေးလက်မ၊ ခြောက်လက်မ၊ ကိုးလက်မ၊ တပေ စသည်ဖြင့် ရုပ်ပွားငယ်ပေါင်း ၅၇၂,၂၅၇ ဆူတို့မှာလည်း အောက်ခြေမှစ၍ အထက်ထိ အတန်းလိုက်အတန်းလိုက်ညီညီညာညာ၊အကန့်အကန့်၊ဆင့်ကာဆင့်ကာ ကိန်းဝပ်စမွယ်တော်မူလျက်ရှိကြရာ ဘုရားဖူးများသည်ဖူး၍ မကုန်နိုင်အောင် အောက်ခြေကလည်းဘုရား၊ အထက်ကလည်းဘုရား၊ မျက်နှာမူရာမှာလည်း ဘုရား၊ နောက်ကလည်းဘုရား၊ ဘေးနှစ်ဖက်ကလည်းဘုရား၊ ဘုရားပေါင်း မြောက်မြားစွာကို ဖူးမြင်ကြရပေသည်။

သမ္ဗုဒ္ဓေစေတီတော်နှင့် စောင်းတန်းအာရုံခံတို့၏အပြင်ဖက်မျက်နှာပတ်လည်တွင် ဖရဲသီး၊ ပိန္နဲသီး၊ သရက်သီး၊ သဘော်သီး၊ ငှက်ပျောခိုင်ကြီး၊ အုန်းခိုင်ကြီး၊ ထန်းသီးခိုင်ကြီးစသည့် သစ်သီးကြီးငယ်တို့၏ သဏ္ဍာန်ကို အစစ်ကဲ့သို့ အင်္ဂတေဖြင့် ပန်းရန်ဆရာတို့ လက်စွမ်းပြ ပြုလုပ်ထားသည်မှာ ချီးမွမ်းဖွယ်ပင်ဖြစ်သည်။ ထိုသစ်သီး ကြီးငယ်တို့ကို အမြဲထာဝရ ဆွမ်းတော်တင်ထားသည့်အလား တွေ့ရသည်။ ဘုရားပွဲတော်ကို နှစ်စဉ် တန်ဆောင်မုန်းလဆန်းတွင် ကျင်းပသည်။ ပွဲတော်ကို အတီးအမှုတ်၊ အကအခုန် ပွဲလမ်းသဘင် မပါရှိပဲ မြသပိတ်မဲဖြင့် ဘုရားဒါယကာရွေးကာ ဆွမ်းတော်ကြီးတင်ပွဲ၊ တရားပွဲ၊ သံဃာတော် ၁၀၀ ကျော်တို့အား ဆွမ်းဆန်စိမ်းလောင်းလှူပွဲကို တန်ဆောင်မုန်းလပြည့်နေ့ နံနက်ပိုင်းတွင် ကျင်းပပြုလုပ်လေသည်။

**သမ္မာကျမ်း။** ။ခရစ်ယန်တို့ အမြတ်တနိုးထားသော သမ္မာကျမ်းကို ခရစ်ယန်တို့နှင့်သာ သက်ဆိုင်သကဲ့သို့ အမှတ်မှဲ့နေခဲ့မိကောင်း နေခဲ့မိကြပေလိမ့်မည်။ သို့သော် သမ္မာကျမ်းသည် ကမ္ဘာ့စာပေ၏ အညွန့် အဆီအနှစ် ဖြစ်သည်ကိုကား လူမျိုးဘာသာမရွေးပင် ဝန်ခံကြရမည် ဖြစ်လေသည်။

သမ္မာကျမ်းသည် ဓမ္မဟောင်းကျမ်းနှင့် ဓမ္မသစ်ကျမ်း ဟူ၍ နှစ်အုပ် ရှိ၏။

ခရစ်မပေါ်မီ နှစ်ပေါင်း ၃,၀၀၀ ခန့်ကမြေထဲပင်လယ်၏ အရှေ့ဖက်ကမ်း အာရေဗျ ကျွန်းဆွယ်၏ မြောက်ယွန်းယွန်းဝယ် ယခုအခါ ယဟူဒီလူမျိုးဟု ကျွန်ုပ်တို့ ခေါ်ဝေါ်ကြသော လူမျိုးများ၏ ဘိုးဘေးအဆက်အနွယ်တို့သည် တိုင်းပြည်တည်၍ နေခဲ့ကြသည်။ ထိုတိုင်းပြည်ကား ယခုအခါ ပယ်လက်စတိုင်ဟု ခေါ်သော တိုင်းပြည်ပင် ဖြစ်၏။ ထိုသူတို့သည် လောက၌ လူသတ္တဝါအပေါင်းကို ကယ်တင်နိုင်မည့် ထာဝရဘုရား ရှိရမည်ဟူသော အယူကို စတင်ယူခဲ့ကြသူများ ဖြစ်၏။

ဓမ္မဟောင်းကျမ်းသည် ကိုးကွယ်ရာ ဘုရားကို ရှာကြသော မနုဿလူသားနှင့် သူတို့၏အယူဝါဒများ အကြောင်းကို မှတ်တမ်းတင်ထားခြင်းဖြစ်သည်။

ကမ္ဘာဦး အစတွင် လူတို့သည် သစ်ပင်၊ ရေ၊ မြေ၊ တော၊ တောင်၊ နေ၊ လ တို့ကို ကိုးကွယ်ခဲ့ကြသည်။ လူတို့၏ ဓမ္မတာ ကိုးကွယ်ရာ ရှာစမြဲပင် ဖြစ်ရကား နီးရာကို ဆည်းကပ်ကြလေသည်။

ပယ်လက်စတိုင်ပြည်သား ဟီဗြူး ခေါ် ယဟူဒီလူမျိုးတို့သည် တဦးတည်းသောထာဝရဘုရားကို စတင်ယုံကြည်လာကြသူများဖြစ်ကြသည်။ ထိုခေတ်အခါက အတိုင်းတိုင်းအပြည်ပြည်တွင် နတ်အမျိုးမျိုးကို ကိုးကွယ်နေခဲ့ကြစဉ်၊ ယဟူဒီလူမျိုးများသည် အခြားလူမျိုးများကဲ့သို့ နတ်အမျိုးမျိုးကို ကိုးကွယ်ခြင်းမပြုပဲ ကောင်းကင်ဘုံ၌ ရှိသော တဆူတည်းသော ဘုရားကိုသာ စတင် ကိုးကွယ်သည်မှာ အဘယ်ကြောင့်ပေနည်း ဟု စဉ်းစား ဖွယ်ရာ ဖြစ်သည်။ ယဟူဒီလူမျိုးတို့သည် အာရေဗျ သဲကန္တာရ တလျှောက် လှည့်လည်နေကြသော လူမျိုးများဖြစ်သဖြင့် အခြားသူတို့ကဲ့သို့ တောတောင်မြစ်ချောင်းစောင့်နတ်များကို ကိုးကွယ်ခြင်းပြုရန်မလိုပဲ ပြန့်ပြူးသော သဲကန္တာရပြင်တွင် ကောင်းကင်မှတပါး ကိုးကွယ်ရန် မရှိတော့သဖြင့် ကောင်းကင်ဘုံ၌ ရှိသော ဘုရားကိုသာ ကိုးကွယ်ကြသည် ဟု အချို့က ယူဆကြသည်။

တဆူတည်းသောဘုရားကို ကိုးကွယ်သော အယူဝါဒ စတင် တည်ထောင်ခဲ့သူများထဲတွင် မောရှေ (မိုးဇက်) ခေါ် ပုဂ္ဂိုလ်ကြီးမှာ အထင်ရှားဆုံးပင် ဖြစ်ခဲ့လေသည်။ (မိုးဇက် — လည်းရှု။)

မောရှေသည် တိုင်းပြည်၏ ခေါင်းဆောင်ကြီး ဖြစ်၍ ထိုအခါက အီဂျစ်ပြည်၌ နတ်ရုပ်များကို ရှိခိုး၍ ရိုင်းစိုင်းကြမ်းကြုတ်သော အလေ့အထများ ပြုလုပ်နေခဲ့ကြသော လူထုကို ကောင်းကင်ဘုံ၌ရှိသော ထာဝရဘုရား တဆူတည်းကိုသာ ကိုးကွယ်ရန် အာရုံပြောင်းပေးခဲ့လေသည်။ မောရှေသည် အယူဝါဒကိုသာရှေ့ဆောင်ရှေ့ရွက် တီထွင်ပေးခဲ့သူမဟုတ်၊ ဥပဒေထုံးတမ်းများကိုလည်း စီရင်ရေးဆွဲပေးခဲ့သူ ဖြစ်လေသည်။ မောရှေ၏ အယူဝါဒ များကို မှတ်တမ်းတင်ထားခြင်းသည် သမ္မာကျမ်း၏အစ ပွဲဦးထွက်




၁၆၁၁ ခုနှစ်တွင် ပဋ္ဌမဆုံး ပုံနှိပ်ထုတ်ဝေခဲ့သည့် ပဋ္ဌမဂျိမ်းဘုရင်၏ အင်္ဂလိပ်သမ္မာကျမ်းစာ အတွင်းဖုံး

ဖြစ်ပေသည်။ ဓမ္မဟောင်းကျမ်းကို ဟီဗြူးဘာသာ၊ အာရာမေးယစ်ဘာသာတို့ဖြင့် ပြုမ်း၍ ရေးသားထားသည်။

ဓမ္မဟောင်းကျမ်းမှာ ရှေးက ယဟူဒီများ ရေးသားခဲ့သည့် ကျမ်းစာများကို တစုတည်း တွဲထားခြင်းပင် ဖြစ်သည်။ ယခုသုံးနေကြသော ဓမ္မဟောင်းကျမ်းမှာ အချို့သော ကျမ်းများကို ပယ်၍ စုပေါင်းထားခြင်း ဖြစ်၏။ ထိုပယ်ထားသော ကျမ်း ၁၄ တွဲကို "အပိုကရိုင်းဖား" ဟု ခေါ်သည်။ အဓိပ္ပါယ်မှာ ကွယ်ဝှက်ထားသော ကျမ်းများဟု ဆိုလိုသည်။ ဗရင်ဂျီဂိုဏ်းဝင်များက ထိုပယ်ထားသော ကျမ်းများကို သုံးမြဲသုံးသော်လည်း၊ ပရိုတက်စတန့်ဂိုဏ်းဝင်တို့က မသုံးတော့ချေ။

ဓမ္မဟောင်းကျမ်းကို စာပေတခုအဖြစ်နှင့် သုံးသပ်ကြည့်ပါက ဟီဗြူးစာပေ၏ အရသာကို သိရပေလိမ့်မည်။ ဓမ္မဟောင်းကျမ်းတွင် ပါသော ဓမ္မသီချင်းများသည် တရားစာများ အဖြစ်ထက် ကဗျာအဖြစ် ပို၍ကောင်းမွန်သည်ကို တွေ့ရလေသည်။ ဟီဗြူးကဗျာသည် နာရီချိန်သီးပမာ ဟိုမှ သည်မှ မှန်မှန် လွှဲသကဲ့သို့လည်းကောင်း၊ ခြေလှမ်း မှန်မှန် ချီတက်သော စစ်တပ်ကြီးကဲ့သို့ လည်းကောင်း ကာရန်အနိမ့်အမြင့်မှာ အလွန်မှန်သည်ဟု ဆိုကြသည်။

ဓမ္မဟောင်းကျမ်းတွင် ကဗျာလင်္ကာများသာ မက၊ စကားပြေနှင့် ပြဇာတ်သဘောများပါ ပါရှိသေးသည်။ စကားပြေများတွင် ရုသဝတ္ထုသည် ရိုးရိုးနှင့် ပြေပြစ်လှပသော ပုံဝတ္ထုကလေးဖြစ်၍ စာပေတွင်အကောင်းဆုံး တခုဟု အသိအမှတ် ပြုကြရသည်။ အပိုမပါ ရိုးရိုးနှင့် အလိုက်သင့် ရေးသားထားသော ဇာတ်လမ်းဖြစ်သည့် အပြင် သိမ်မွေ့သော စိတ်သဘာဝနှင့် ယှဉ်နေသည်။ ထို ပုံဝတ္ထုသည် မည်သည့်အခါက ရေးခဲ့သည်ဟုကား အသေအချာ မပြောနိုင်သော်လည်း စာပေတွင် မတိမ်ကောနိုင်သော စာကောင်းတပုဒ် ဖြစ်သည်ကို စာပေ၌ နှံ့စပ်သူတိုင်း ဝန်ခံရပေမည်။ တရပ်သူ ရုသသည် လင်ယောကျ်ား သေဆုံးပြီး၍ ယောက္ခမကြီးက သူ့ရပ်ဌာနေသို့ ပြန်သွားတော့မည် ရှိသောအခါ သစ္စာရှိစွာနှင့် လိုက်သွား၍ အဆင်းရဲခံကာ လုပ်ကျွေးသမှုပြုသော ဇာတ်လမ်း ဖြစ်သည်။ "ကိုယ်တော်အမျိုးသည် ကျွန်မအမျိုး၊ ကိုယ်တော်ဘုရားသည် ကျွန်မဘုရားဖြစ်ပါစေ" ဟူသော စာကြောင်းကို စာပေသမားတို့ မကြာခဏ ကိုးကားရွတ်ဆိုလေ့ရှိကြသည်။

ယောဘဝတ္ထုကား ဓမ္မဟောင်းကျမ်းတွင် ထင်ရှားသော ဝတ္ထု ဖြစ်၍ လူသတ္တဝါတို့ ခံစားရသော ဒုက္ခများကို မူတည်ကာ ရေးသားထားသည်။ ယောဘ အမည်ရှိသော လူချမ်းသာတဦးသည် အကျင့်သီလနှင့်လည်း ပြည့်စုံ၏။ ယောဘသည် ဥစ္စာပစ္စည်း ပြည့်စုံ၍သာ သီလရှိသလော ဟု စုံစမ်းသောအားဖြင့် ဘုရားသခင်သည် ယောဘအား ဥစ္စာပစ္စည်းပျက်၍ ဆင်းရဲအောင် ဖန်တီးလိုက်၏။ ဆင်းရဲဒုက္ခနှင့် ကြုံတွေ့ရသောအခါ ဘုရားသခင်အား မယုံကြည်ပဲ ဖြစ်လာပုံ၊ ထိုနောက်မှတဖန် ဘုရားကို ပြန်ယုံလာပုံ၊ လူတယောက်၏ စိတ်အယူအဆများ ပြောင်းလဲလာပုံ၊ အတိုက်အခံဖြစ်ပုံများ စသည်တို့ကို ဖော်ပြထားရာ အလွန်သဘာဝကျလှသဖြင့် စာပေလောကတွင် ထိုဝတ္ထုကို ရေးသူ၏ စိတ်ကူးဉာဏ်ကူးကို မှီနိုင်သူ ရှားလေသည်။ ဓမ္မဟောင်းကျမ်းကို ယခုခေတ် စာပေသမားများက အမျိုးမျိုး ဝေဖန်ကြလေသည်။ အတွေးအခေါ် သာမဟုတ်၊ စာအရေးအသားလည်း အလွန်ကောင်းလှသဖြင့် ထိုကျမ်းကို တဦးတည်း ပြုစုသည် မဟုတ်၊ ပညာရှင်များ စုပေါင်းပြုစုခြင်း ဖြစ်ရမည်ဟုပင် ယူဆကြသည်။ ယခုအခါ ထိုကျမ်းကို ဋီကာ၊ အဋ္ဌကထာ စသည်ဖြင့် အမျိုးမျိုး ဖွင့်ထားကြ၏။

ဓမ္မဟောင်းကျမ်းတွင် အပိုကရိုင်းဖား ခေါ် ကွယ်ဝှက်ထားသော ကျမ်းတို့မှာ အယူဝါဒဆိုင်ရာဖက်၌ အရေးမကြီးသကဲ့သို့ ချန်ထားခဲ့သော်လည်း စာပေအဖြစ်ဖြင့်

ကား တန်ဖိုးရှိပေသည်။ အပိုကရိုင်းဖားကို မဖတ်ရသော သူသည် စာပေစမြိန်စားပွဲကြီး တခုနှင့် လွဲရသည်နှင့် အတူတူဖြစ်သည်ဟု ဆိုကြသည်။ ထိုကျမ်းများသည် ခန့် ညားသလောက် စာပေ အရေးအသားမှာ ရိုးသား၍ အဓိပ္ပါယ်ပြည့်ဝလှ၏။ ထိုကျမ်းများသည် စာပေ ဂုဏ် မြောက်လောက်အောင် အရေးအသား ကောင်းရုံသာ မက ဗဟုသုတ အဆီအနှစ်နှင့်လည်း ပြည့်စုံလှသည်။ သူ လောက် စာဖတ်သူမရှိဟု ဆိုလောက်အောင် စာပေတွင် နှံ့စပ်လှသည့် အင်္ဂလိပ် အဘိဓာန်ကြီးကို ပြုစုခဲ့သူ ဒေါက်တာဂျွန်ဆင်ပင် ထိုကျမ်းစာကို အသက် ၆၃ နှစ် အထိ မဖတ်ဘူးခဲ့သေးပေ။ သို့သော် ဒေါက်တာဂျွန်ဆင် အသက် ၆၃ နှစ်မပြည့်မီက ရေးသားထားသော နေ့စဉ် မှတ်တမ်းတွင် "ကျွန်ုပ် အပိုကရိုင်းဖားကို တခါမျှ မဖတ်ဘူး သေး" ဟု ရေးထားခဲ့ပြီးလျှင် နောက်ထပ် ရေးသော မှတ်တမ်းများတွင် သစ္စာတရားသည်သာလျှင် လောက၌ အင်အားအကြီးဆုံး ဟူသည်ကို သရုပ်ပြသော အပို ကရိုင်းဖားမှ ပုံဝတ္ထုကို ဖတ်သည်ဟု တွေ့ရသည်။ (ဂျွန်ဆင်, ဆယ်မျူယယ် — လည်းရှု။) သစ္စာတရားသည် အချိန်ကာလ၊ နေရာမရွေး မပေါက်မပြန် အမြဲတည်တံ့ သည် ဟူသော တရားသည် ထိုအပိုကရိုင်းဖားကျမ်း၌ ပါ ရှိလေသည်။ စာပေ၌ နှံ့စပ်သူတိုင်း ထိုအပိုကရိုင်းဖား ကျမ်းကို မဖတ်ရမနေ ရှာဖွေဖတ်ရှုကြလေသည်။

ဓမ္မဟောင်းကျမ်းကို ခရစ်မပေါ်မီ ၂၀၀ ပြည့်နှစ်တွင် ဂရိဘာသာသို့ ပြန်ဆိုခဲ့လေသည်။ တဖန် လက်တင်ဘာသာ သို့ ပြန်ခဲ့ပြီးနောက် ခရစ်ယန်အယူဝါဒ၌ သက်ဝင်သည့် တိုင်းပြည်တိုင်းက မိမိတို့၏ တိုင်းရင်းဘာသာ အသီးအသီး သို့ ပြန်ဆိုကြလေသည်။

ဓမ္မဟောင်းကျမ်းတွင် ပယ်လက်စတိုင်ပြည်သားတို့ ကိုး ကွယ်ရန် တဆူတည်းသော ဘုရား ရှာဖွေ ကြံဆကြသည့် အဖြစ်အပျက်များ ပါဝင်၍ ဓမ္မသစ်ကျမ်းမှာ ထိုလူမျိုး များ မြော်လင့်တောင့်တ ယုံကြည်ကြသည့်အတိုင်း ထာဝရ ဘုရားသခင်ထံမှ ကယ်တင်မည့်သူ စေလွှတ်လိုက်သော အခါ ခရစ်တော်ယေရှု လူ့ပြည်သို့ ရောက်လာပုံ၊ သူ၏ ဟောပြော ဆောင်ရွက်ချက်များနှင့် သူ၏ တပည့်သား များထံ ပေးသော ဩဝါဒစာများ ဖြစ်လေသည်။ ဓမ္မသစ် ကျမ်းကို ဂရိဘာသာနှင့် အာရာမေးယစ် ဘာသာဖြင့် စီစဉ်ရေးသားခဲ့ရာ ရေးသား စီရင်သူများမှာလည်း ဂရိ လူမျိုးများ ဖြစ်၍ ယဟူဒီလူမျိုးတဦးသာ ပါလေသည်။

သမ္မာကျမ်းစာကို စာပေအဖြစ်နှင့် လေ့လာစေကာမူ ခရစ်တော်ယေရှု၏ အကြောင်းကို ချန်လှပ်ထားခဲ့၍ မဖြစ် နိုင်ပေ။ ဓမ္မသစ်ကျမ်း အတွဲတိုင်း၌လိုပင် ထိုပုဂ္ဂိုလ်၏ ဆောင်ရွက်ချက် ဟောပြောချက်များ ပါဝင်လေသည်။

ယေရှုသည် လွန်ခဲ့သော နှစ်ပေါင်း ၂,၀၀၀ ခန့်က မွေး ဖွား၍ အသက် ၃၅ နှစ်ခန့်သာ လူ့ပြည်၌ နေသွားသော် လည်း လူအများအား ခိုင်မြဲသော အယူဝါဒ သိမ်းသွင်း ပေးနိုင်ခဲ့သည်ကို ထောက်ရှုသော် ထိုပုဂ္ဂိုလ်သည် အကျင့် သီလ၊ ဉာဏ်ပညာ ကြီးမားသော ပါရမီရှင်တဦး ဖြစ်မည် ကို ဝန်ခံကြရပေမည်။

ဟီဗြူးဘာသာ၊ ဂရိဘာသာများဖြင့် ရေးသားခဲ့၍ အပြန်ပြန် ရေးကူးရာ၌ မှုကွဲခြင်း၊ ဘာသာပြန်ရာ၌ အဓိပ္ပါယ်လွဲခြင်း စသည်တို့အကြားမှ စာပေ အရသာ ဗဟုသုတတို့ မပျက်မစီးပဲ ပြည့်စုံနေသေးသည်မှာ သမ္မာ ကျမ်းရင်း၏ ကောင်းခြင်းအင်္ဂါတရပ်ပင် ဖြစ်၏။ အင်္ဂလိပ် စာပေ၏ အညွန့်အဖူး ဟူသမျှသည် သမ္မာကျမ်းနှင့် မကင်း သည်ကိုပင် စာပေ နှံ့စပ်သူတိုင်း တွေ့ကြပေမည်။ သမ္မာ ကျမ်း၏ ကျေးဇူးကြောင့်ပင် အင်္ဂလိပ်စာပေသည် ဖွံ့ဖြိုး ခဲ့သည် ဆိုက မမှားနိုင်ချေ။ အင်္ဂလိပ် စာရေးဆရာကြီး ဂျွန်ဗန်ညန်သည် သမ္မာကျမ်းကို ကြေအောင် ဖတ်ရှု လေ့ လာပြီးမှ "ခရစ်ယန်၏ ထွက်ရပ်လမ်း" (ပီးလဂရင်း ပရိုး ဂရက်) ဝတ္ထုကို ရေးသားခဲ့ရာ ကမ္ဘာ့စာပေတွင် ချီးကျူး ၍ မဆုံးနိုင်သော စာပေကောင်းတခုအဖြစ် မှတ်တမ်း တင်ခြင်းခံရလေသည်။ (ဗန်ညန်, ဂျွန် — လည်းရှု။) သမ္မာ ကျမ်း၏ စကားအသုံးအနှုန်းများသည် ရိုးသားလှရုံသာ မက အလွန်လွယ်ကူ၍ လူတိုင်း နားလည်နိုင်သည်။ သမ္မာ ကျမ်းတွင် စာပေ အညွန့်အဖူးများ စုဝေးနေရာ သမ္မာ ကျမ်းကို လက်ကိုင်ထား၍ ဖတ်ခဲ့ကြသောကြောင့် စာ ကောင်း ပေကောင်း ရေးသားနိုင်ခဲ့သူများသာမက တိုင်း ပြည်ကို ခေါင်းဆောင်နိုင်ခဲ့သူများလည်း ရှိသေးသည်။ ဂျွန် ဗရိုက်သည် သမ္မာကျမ်းကို လက်ကိုင် ဖတ်ရှုလေ့လာ သဖြင့် ၁၉ ရာစုနှစ်တွင် မယှဉ်နိုင်အောင် စကားပြော ကောင်းသူတဦး ဖြစ်လာသည်။ အမေရိကန် သမတ လင်းကွန်းသည်လည်း သမ္မာကျမ်းကို လေ့လာသူတဦးဖြစ် သည်။ သမ္မာကျမ်းသည် စင်စစ်အားဖြင့် စာတအုပ်တည်း မဟုတ်၊ အုပ်တွဲပေါင်း ၆၆ အုပ်ကို တပေါင်းတည်း ပြုစု ထားသော ဗဟုသုတပေါင်းစုံသည့် ပိဋကတ်တိုက်တခုဟု ဆိုလောက်သည်။ ခရစ်ယန် အယူဝါဒ ရောက်ရှိသွားခဲ့ သော တိုင်းပြည်မှန်သမျှ၌ သမ္မာကျမ်းကို တိုင်းရင်း ဘာသာဖြင့် ဘာသာပြန်ပြီးရှိ၏။ သမ္မာကျမ်းသည် ကမ္ဘာ့ စာပေလောက၌ ဘာသာအမျိုးအစုံဆုံးဖြင့် ပြန်ဆိုခြင်း ခံခဲ့ရသော ကျမ်းဖြစ်သည်ဟု ဆိုရပေမည်။ သမ္မာကျမ်း တခုလုံးကို ဘာသာပေါင်း ၁၀၀ မျိုးဖြင့် ပြန်ဆိုထား၍ တစိတ်တဒေသကိုမူ ဘာသာပေါင်း ၅၀၀ ကျော်ဖြင့် ပြန် ဆိုထားလေသည်။ ၁၃၈၂ ခုနှစ်က ဂျွန်ဝစ်ကလစ် ဆိုသူ သည် အင်္ဂလိပ်ဘာသာဖြင့် ပဌမဆုံး ပြန်ဆိုခဲ့လေသည်။

(ဝစ်ကလစ်,ဂျွန် — လည်းရှု။) သူနောက်မှ အထပ်ထပ် ပြင်ဆင် ပြန်ဆိုကြသည်မှာလည်း အများအပြားပင် ဖြစ်သည်။ နောက်ဆုံး ၁၉ ရာစုနှစ်လောက်က စတင်၍ သမ္မာကျမ်း၌ ပါရှိသော ကဗျာ လင်္ကာများကို အနေအထား မပျက်အောင် စီစဉ်ပုံနှိပ်ကြသည်။ ယခုအခါတွင် သမ္မာကျမ်းကို စာပေအဖြစ် သက်သက်လေ့လာကာ အဖွင့် ဋီကာများကို ရေးသားထားသော စာအုပ်ပေါင်း မြောက်မြားစွာပင် ထွက်နေလေပြီ။

"ဓမ္မဟောင်းကျမ်းနှင့် ဓမ္မသစ်ကျမ်း တည်းဟူသော ထာဝရဘုရား၏ သမ္မာကျမ်း" ကို ဒေါက်တာ အဒိုနီရမ် ဂျပ်ဆင်(ဆရာယုဒသန်)သည် "ဟေဗြဲ၊ ဟေလာသပါဠိတော်မှ မြန်မာဘာသာဖြင့်........ အနက်ပြန်ခဲ့လေသည်။" (ယုဒသန် — လည်းရှု။) ယုဒသန် ပြန်ဆိုခဲ့သော ဓမ္မသစ်ကျမ်းကို ၁၈၃၂ ခုနှစ် ဒီဇင်ဘာလ ၁၅ ရက်နေ့တွင် မော်လမြိုင်မြို့ သာသနာပုံနှိပ်တိုက်၌ ပဌမဆုံးအကြိမ် ရိုက်နှိပ်ခဲ့၏။ ယုဒသန်သည် ဓမ္မဟောင်းကျမ်းကိုလည်း ဆက်လက်ပြန်ဆိုခဲ့ရာ ၁၈၃၅ ခုနှစ် ဒီဇင်ဘာလ ၂၉ ရက်နေ့တွင် ပုံနှိပ်ပြီးစီးလေသည်။

သမ္မာကျမ်းသည် လွန်ခဲ့သော နှစ်ပေါင်း ငါးထောင်နီးပါးမှ အစပြု၍ လူတို့၏ ဖြစ်စဉ် အယူဝါဒများကို မှတ်တမ်းတင်ခဲ့သော စာစောင်များဖြစ်ရာ ရှေးဟောင်းစာပေအဖြစ်နှင့်သာ တန်ဖိုးရှိသည် မဟုတ်၊ ရာဇဝင်သမိုင်းအဖြစ်နှင့်လည်း လေ့လာထိုက်ပေသည်။ သမ္မာကျမ်းသည် ကျမ်းတွဲပေါင်း ၆၆ တွဲမျှကို ပေါင်းချုပ်ထားသော ကျမ်းစာအုပ်ကြီးဖြစ်၍ အတွဲတိုင်း အတွဲတိုင်း တမျိုးစီ ဗဟုသုတ အဆီအနှစ်နှင့် ပြည့်စုံသည်ချည်းဖြစ်၏။ လူတို့၏ အတ္ထုပ္ပတ္တိ အကြောင်းဖြစ်စဉ်နှင့် ထိုခေတ်အခါက လူများ ယူဆတွေးတောပုံကို စေ့စပ်စွာ မှတ်တမ်းတင်ထားသော ကျမ်းလည်း ဖြစ်၏။ သမ္မာကျမ်းတွင် စာပေလောက၌ ရှိရှိသမျှသော စာအရေးအသား အမျိုးစုံကို တွေ့ရလိမ့်မည်။ ပုံဝတ္ထုများ၊ အတ္ထုပ္ပတ္တိများ၊ ဩဝါဒစာများ၊ ဟောပြောချက်များ၊ ဆုတောင်းများ၊ သီချင်းကဗျာများ စသည်ဖြင့် စာပေသိုက်နန်းကြီးသဖွယ် ပြည့်စုံခမ်းနားလှသည်။

**သံမှို။** ။သံမှိုကို လူတိုင်းလောက် မြင်ဘူးကြ၏။ လက်သမားသည် သစ်သားတစနှင့် အခြား သစ်သားတစတို့ စွဲမြဲစွာ ထိစပ်နေစေရန်၎င်း၊ အဆောက်အအုံ ဆောက်လုပ်ရာ၌ ပျဉ်များ ခိုင်မြဲစွာ ရှိနေစေရန်၎င်း သံမှိုကို အသုံးပြုရ၏။ ယင်းသို့ သံမှိုကို အသုံးပြုခြင်းအားဖြင့် ခိုင်လည်းခိုင်၏။ ဈေးလည်း သက်သာ၏။ သံမှိုတဖက်ဖျားကို ချွန်ထားရခြင်းမှာ သစ်သားထဲသို့ ယင်းကို တူဖြင့် ရိုက်သွင်းလိုက်သောအခါ သံမှို၏ ကိုယ်ထည်အတွက် လမ်းဖွင့်ပေးသော သပ်ကဲ့သို့ ဖြစ်နေစေရန်အတွက် ဖြစ်သည်။ သို့မဟုတ်က သစ်သား ကွဲသွားတတ်၏။ အခြား တဖက်ဖျားတွင်ကား သံမှို၏ ခေါင်းသည် ပြားလျက်ရှိ၏။ ပြားနေသောကြောင့် သံမှိုဝင်သွားသော အပေါက်နေရာကို မမြင်အောင် ဖုံးထားသည့်ပြင် သစ်သား မျက်နှာပြင်လည်း ချောလျက်ရှိနေပေသည်။

သံမှိုကို သူ့နေရာနှင့်သူ၊ အရွယ်နှင့် အမျိုးအစားကို ရွေး၍ အသုံးပြုရသည်။ များသောအားဖြင့် ခေါင်းပြားသံမှိုလုံးကို အသုံးများကြသည်။ သို့သော် သုတ်ဆေးသုတ်ရန်နှင့် နောက်မှ အချောကိုင်ရန်ဖြစ်သော သစ်သားများတွင် ခေါင်းသေးသေး သံမှိုများကို အသုံးပြုကြသည်။ ခေါင်းသေးသောကြောင့် သုတ်ဆေးသုတ်လိုက်သည့်အခါ ကောင်းစွာ မမြင်ရတော့ချေ။

လေးထောင့်သံမှိုသည် မြင်း သံခွာရိုက်ရန်နှင့် အိမ်အမိုးမိုးရန်အတွက် အကောင်းဆုံးဖြစ်သည်။ ဤ သံမှိုမျိုးကို သံပြားများမှ လေးထောင့် စိတ်ယူရသည်။ လေးထောင့်သံမှိုများသည် သံမှိုလုံးများထက် ပို၍ ခိုင်သည့်ပြင် ပို၍လည်း မြဲသည်။ သို့သော် အရိုက်ရခက်၍ သစ်သားလည်း ကွဲတတ်သည်။ ပြော့ကြောင်း သံမှိုမျိုးကား ရိုက်ထားသည့်နေရာတွင် အလွန်စွဲမြဲ၏။ ရှူးဖိနပ်နှင့် မော်တော်ကားစက်ရုံများတွင် ဤသံမှိုမျိုးကို အမြဲအသုံးပြုကြသည်။

နည်းမှန် သံရိုက်အကောင်းဆုံး နည်းကား သံမှိုခေါင်းကို တူဖြင့် ညီညီ၊ ခပ်ဆတ်ဆတ်နှင့် မြန်မြန်ရိုက်ရသည်။ သံမှိုခေါင်းကို တဖက်စောင်း ရိုက်မိပါက ကောက်သော်လည်း ကောက်သွားနိုင်၏။ ကျိုးသော်လည်း ကျိုးသွားနိုင်၏။ သံမှိုကို သစ်သားထဲသို့ တည့်တည့်ရိုက်သွင်းသည်ထက် ခပ်စောင်းစောင်း ရိုက်သွင်းပါက ပို၍ ခိုင်မြဲသည်ဟု ဆိုသည်။

သံမှိုလုပ်စက်ကို ခရစ် ၁၇၈၆ ခုနှစ်တွင် အီဇီကီယယ် ရိဆိုသူ အမေရိကန် လူမျိုးတဦးက ဦးစွာပဌမ စတင်တီထွင်ခဲ့သည်။ ထပ်မံပြုပြင်ထားသော သူ၏စက်ကို ယခုတိုင် လေးထောင့် သံမှိုများ ပြုလုပ်ရန်အတွက် အသုံးပြုလျက်ရှိသေးသည်။ ဤ လေးထောင့်သံမှိုများသည် အဖျားသို့ ရှူးသွားသော်လည်း အဖျားတွင် ချွန်၍ မနေချေ။ ခရစ် ၁၇၉၀ ပြည့်နှစ်တွင် အင်္ဂလန်ပြည်၌ တီ ကလစ်ဖို့ ဆိုသူ အင်္ဂလိပ်လူမျိုးတဦးက သံမှိုလုပ်စက် တမျိုးကို ထပ်မံတီထွင်ပြန်သည်။ နောက်နှစ်ပေါင်း တရာလောက်ကြာသောအခါ လေးထောင့် သံမှိုမျိုးကို အသုံးမပြုတော့ပဲ သံမှိုလုံးများကိုသာ အသုံးများလာကြသည်။

ယခုခေတ် သံမှိုလုပ်စက်သည် ရှေး သံမှိုလုပ်စက်များမှ တဖြည်းဖြည်း တိုးတက် ပြောင်းလဲလာခဲ့သော စက်ဖြစ်သည်။ သံမှိုလုပ်စက်၏ အဓိက အစိတ်အပိုင်းကြီး သုံးခုမှာ ညှပ်ပုံ၊ ပလိုင်ယာ ညှပ်နှင့် တူဖြစ်သည်။ ရစ်လုံးတွင် ရစ်

ထားမသာ ဝိုင်ယာသံလုံးကြီးကို စက်ထဲသို့ ကိုးသွင်းလိုက်၍ ညှပ်ပုံရှိရာသို့ ရောက်သွားသည်နှင့် လိုသလောက် အရှည်ကို ညှပ်ပုံက ဖြတ်တောက်ပေးလိုက်၏။ ထို့နောက် ပလိုင်ယာ ညှပ်က အဖျားချွန်ပေး၏။ တူက သံမှို၏ တဖက်ထိပ်ကို ပြားအောင် ထုပေး၏။ သို့ဖြင့် သံမှိုများ၏ အရွယ်ပမာဏ ကိုလိုက်၍ သံမှိုစက်သည် တမိနစ်လျှင် သံမှိုအချောင်းပေါင်း ၁၀၀ မှ ၁၀၀၀ အထိ ထုတ်လုပ်ပေးနိုင်သည်။ သံမှိုများကို သံ၊ ကြေးနီ၊ ကြေးဝါ၊ သွပ် စသော သတ္တုများမှ ပြုလုပ်ယူကြသည်။

သံမှို အရွယ် အစားစားရှိ၏။ တလက်မ အရွယ်မှ ငါးမတ်သံ၊ တလက်မခွဲသံ၊ နှစ်လက်မသံ စသည်ဖြင့် တဖြည်းဖြည်း တိုးတက်ကာ ငါးလက်မသံအထိ ရှိသည်။ တလက်မ သံထက် ငယ်၍ သေးသော သံမှိုများလည်း ရှိ၏။ သံမှိုကို အလေးချိန်ဖြင့် ရောင်းချလေ့ ရှိကြရာ အရွယ် သေးငယ်လေလေ၊ ဈေးကြီးလေလေဖြစ်သည်။

သံမှိုလုပ်စက် မတီထွင်မီ ခေတ်နှင့် ယခုခေတ် သံမှိုလုပ်ရာတွင် မည်မျှကွာခြားသည်ကို တွေးကြည့်နိုင်သည်။ ရှေးခေတ်က သံမှိုလုပ်ရာတွင် တချောင်းချင်း ပေပေါ် တင်၍ တူဖြင့် ထု၍ လုပ်ရရာ အတော်ပင် လက်ဝင်လှ၏။ အိမ်များတွင် ဖားဖိုကလေးများရှိရာ သံကိုဖုတ်၍ လိုရာပုံကို ပေပေါ်တွင် တင်၍ ထုရိုက် ပြုလုပ်ရသည်။ များသောအားဖြင့် လေးထောင့် သံမှိုများကို ပြုလုပ်ကြသည်။

**သံရောင်လိုက်မှို။** ။သံရောင်လိုက် မှိုသည် ပင်ဖျက်ပိုးများ ကဲ့သို့ အပင်များ အထူးသဖြင့် ကောက်ပင်များကို များစွာ ပျက်စီးစေနိုင်သော မှိုမျိုးဖြစ်သည်။ ယင်းမှိုမျိုးမှ ထွက်သော မျိုးမှုန်များသည် အလွန်သေးငယ်ကြ၍ သံချေးနှင့်တူပြီးလျှင် သံချေးအရောင် ကဲ့သို့ရှိသောကြောင့် သံရောင်လိုက်မှိုဟု အမည်တွင်သည်။ ကောက်ပင်များတွင် သံရောင်လိုက်မှို ကျရောက်လာသည့်အခါ အပင်များ ညှိုးနွမ်းသွားကာ သီးနှံများ မအောင်မြင်နိုင်တော့ချေ။ တခါတရံ စိုက်ပျိုးထားသည့် လယ်ယာတွင် တဝက်မျှအထိ ပျက်စီးဆုံးရှုံးစေနိုင်သည်။ သံရောင်လိုက် မှိုတွင် ခြည်မျှင်သဖွယ် အထူးအင်္ဂါများရှိရာ ယင်းတို့သည် အပင်၏ ဆဲများထဲသို့ ဖောက်ထွင်းထိုးဝင်ပြီးလျှင် အပင်၏ အစာများကို စုတ်ယူစားသောက်ကြသည်။ ထိုအခါ ပင်စည်နှင့် အရွက်များသည် ခြောက်သွေ့သွားတော့၏။ ထို့ကြောင့် သံရောင်လိုက်မှိုသည် တောင်သူလယ်သမားများအတွက် ကြီးစွာသော အန္တရာယ်တခု ဖြစ်ပေသည်။

သံရောင်လိုက်မှို အများဆုံး ကျရောက်တတ်သော ကောက်ပင်များမှာ ဂျုံပင်၊ မြင်းစားဂျုံပင်နှင့် မုယောပင်တို့ ဖြစ်ကြသည်။ ရိုင်းစပါးပင်၊ ပဲပင်၊ ကလိုဗာပဲပင်နှင့် အစေ့မာသီး အပင်များ၌လည်း သံရောင်လိုက်မှို ကျရောက်စွဲကပ်တတ်သည်။ သံရောင်လိုက်မှိုသည် ကောက်ပင်များကို သာမက သစ်ပင်ကြီးများကိုလည်း ပျက်စီးစေနိုင်သဖြင့် သစ်လုပ်ငန်းကိုလည်း များစွာ ထိခိုက်စေနိုင်သည်။

သံရောင်လိုက်မှိုကို စတင်လက်ခံ၍ ကြီးပွားစေသော လက်ခံပင် နှစ်မျိုးရှိ၏။ လက်ခံပင် တမျိုးမှာ ဂျုံပင်ဖြစ်၍ အခြား လက်ခံပင် တမျိုးမှာ ဗာဗာရီပင် ဖြစ်သည်။ အကယ်၍ ဗာဗာရီပင်များကို အမြစ်ပါမကျန် သုတ်သင်ရှင်းလင်းလိုက်နိုင်ပါက ဂျုံပင်များတွင် ကျရောက်တတ်သော သံရောင်လိုက်မှိုများပါ ပျောက်ကွယ်သွားနိုင်သည်ဟု ရုက္ခဗေဒ ပညာရှင်များက ယူဆကြသည်။ သံရောင်လိုက်မှို မူလ ကျရောက်လာပုံမှာ ဗာဗာရီပင် အရွက်၏ အောက်ဖက်ရှိ ချိုင့်ခွက်ကလေးများတွင် လိမ်မော်ရောင် မျိုးမှုန်စိုင်များကို ပဌမ တွေ့ရှိရသည်။ ဤ မျိုးမှုန်များကို လေက မိုင်ပေါင်းများစွာ တိုက်ခတ်ယူဆောင်ရာမှ ဂျုံပျိုးပင်များပေါ် သို့ ရောက်ရှိလာသည်။ မျိုးမှုန်များသည် ဂျုံပင်ပေါ်တွင် ခြည်မျှင်သဖွယ် အညှောက်ထွက်လာကာ ရိုးတံတွင်းသို့ တိုးဖောက်ဝင်သွားပြီးလျှင် ဂျုံပင်၏ အစာကို စားသောက်သဖြင့် အပင်မကြီးထွားနိုင်တော့ပဲ ညှိုးနွမ်းသွားလေသည်။

ကောက်ရိတ်ချိန် မတိုင်မီတွင် ဂျုံပင်၏ အရွက်များနှင့် တခါတရံ ရိုးတံများပေါ်တွင် သံရောင်စင်းများနှင့် အစက်များပေါ်လာ၏။ ဤသံရောင်လိုက်မှိုစင်းများ၏ အရောင်မှာ အနီဖြစ်သည်။ လေ တိုက်ခတ်မှုကြောင့် ဤမှိုစင်းများမှ မျိုးမှုန်များသည် အနီးအနား ဂျုံပင်များသို့ ပျံ့လွင့်သွားရကား မျိုးပွားကာ မှိုရောဂါ လျင်မြန်စွာ ကူးစက်သွားလေသည်။ ဂျုံပင်များ ကြီးရင့်လာသည့်အခါ ပင်စည်များတွင် အမဲရောင် အစင်းနှင့် အစက်များ ပေါ်လာပြန်၏။ လေတိုက်ခတ်မှုကြောင့် ထိုအမဲရောင် အစင်းများမှ မျိုးမှုန်များသည် ဗာဗာရီပင် အရွက်များသို့ ရောက်ရှိသွားပြန်လေသည်။ သို့ဖြင့် ဤ သံရောင်လိုက် မှိုရောဂါသည် တနေရာမှ တနေရာသို့ လှည့်လည်ကာ တနှစ်ပြီးတနှစ် ဆက်၍ ကောက်ပင်များကို ဖျက်ဆီးလေသည်။ စိုက်ပျိုးသည့်အခါ ဂျုံပင်တမျိုးတည်းကို နှစ်စဉ် မစိုက်ပျိုးပဲ အခြား ကောက်ပင်များနှင့် လဲ၍ အလှည့်ကျ စိုက်ပျိုးသွားပါက သံရောင်လိုက်မှိုရောဂါ ပျောက်ကင်းသွားနိုင်ပေသည်။

မှိုရောဂါ တမျိုးရှိသေး၏။ ထိုမှိုမျိုးသည် သံရောင်လိုက်မှိုမျိုးကဲ့သို့ မဟုတ်ပဲ မျိုးစေ့များတွင် ဦးစွာ စွဲကပ်တတ်သည်။ ထိုမျိုးစေ့များကို လယ်တွင် ကျဲလိုက်သည့်အခါ ပျိုးပင်များ ထွက်ပြူလာသည်နှင့် တပြိုင်နက် မှိုရောဂါပါ တဆက်တည်း ပါလာတော့၏။ ကောက်ပင်နှင့် အတူ ရောဂါမျိုးမှုန်တို့လည်း တိုးပွားလာကြ၍ အပင်၏ အစာကို စုတ်ယူ စားသောက်ကြသည်။ ထို့ကြောင့် ထိုမှိုရောဂါမျိုး

ကျရောက်သော ကောက်ပင်တို့တွင် အနှံများ မအောင်မြင်ပဲ ရှိတတ်သည်။ အောင်မြင်သော်လည်း အစေ့များ အဖျင်းများ၏။ အဖျင်းများတွင် ရောဂါမျိုးမှုန့်တို့ဖြင့် ပြည့်နေသဖြင့် ကောက်နှံနယ်သည့်အခါ၌ ဖြစ်စေ၊ ကောက်လှိုင်းများကို တနေရာမှ တနေရာသို့ သယ်ယူသည့်အခါ၌ ဖြစ်စေ ထို ရောဂါမျိုးမှုန့်တို့သည် အောင်မြင်သော ကောက်စေ့များသို့ ကူးစက်သွားလေသည်။ ဤ နည်းဖြင့် ရှေ့တနှစ်တွင် ကြဲရမည့် မျိုးစေ့များ၌ မှိုရောဂါတွယ်လျက် ရှိပြန်လေသည်။

ဤ မှိုရောဂါမျိုးမှာ သုံးမျိုးရှိ၏။ တမျိုးမှာကောက်နှံကို ကျပ်ခိုးမှုန့်ကဲ့သို့ ဖြစ်သွားစေ၏။ ထိုကျပ်ခိုးမှုန့်ကို လေတိုက်ခတ်၍ လွင့်ထွက်သွားသည့်အခါ အပင်ရိုးတံသာ ထီးတည်း ကျန်ခဲ့တော့သည်။ ဒုတိယ မှိုရောဂါမျိုးမှာ ကောက်နှံ တခုလုံးကို ကောက်ရိတ်ချိန်ရောက်မှ ကြွေကျစေသည်။ တတိယ ရောဂါမျိုးမှာ အခွံအတွင်း၌ရှိသော အစေ့များကို ဖျက်ဆီးသဖြင့် အဆိုးရွားဆုံး ဖြစ်သည်။ တခါတရံ လယ်တဝက်ခန့်လောက် ပျက်စီးသွားစေနိုင်သည်။ ဤ တတိယ မှိုရောဂါမျိုး ကျရောက်သည့်အခါ အစေ့အတွင်း၌ရှိသော အမှုန်နံ့မှာ ငါးပုပ်နံ့ရသည်။

ကောက်ပဲသီးနှံပင်တို့ကို ဤမျှ ပျက်စီးစေနိုင်သော သံရောင်လိုက် မှိုနှင့် အခြား မှိုရောဂါများကို ကာကွယ်ရန် နည်းလမ်းများရှာရာ၌ ထိုရောဂါများကို ခံနိုင်ရည်ရှိမည့် မျိုးသန့်များ ရရှိအောင် ထိန်းသိမ်းနည်းမှာ အကောင်းဆုံး နည်းဖြစ်သည်ဟု စိုက်ပျိုးရေး လေ့လာသူများ တွေ့ရှိရသည်။ ထိုရောဂါမျိုး ကျရောက်လျက်ရှိသော လယ်မြေများတွင် ကောက်ပင်အမျိုးမျိုးကို အလှည့်ကျ စိုက်ပျိုးခြင်းဖြင့်လည်း ပပျောက်သွားနိုင်သည်။ မြေဆီလွှာတွင် နိုက်ထရိုဂျင်ဓာတ်၊ သို့မဟုတ် အစိုဓာတ် များလွန်းလျှင်လည်း ထိုရောဂါမျိုး ကျရောက်နိုင်သည်။

**သံလိုက်ခေတ်။** ။သံလိုက်ကို အင်္ဂလိပ်ဘာသာအားဖြင့် "မဂ္ဂနက်" ဟု ခေါ်သည်။ ထိုဝေါဟာရမှာ ရှေးက အာရှမိုင်းနားပြည်တွင် မဂ္ဂနက်အမည် ရှိသော သိုးထိန်းသမားကလေးတဦးက သဘာဝ သံလိုက်ဓာတ်ပါသည့် ကျောက်တုံးတတုံးကို အမှတ်မဲ့တွေ့ရာမှ စတင်ဖြစ်ပေါ်လာသည်ဟု အချို့က ပြောကြသည်။

ဤသဘာဝ သံလိုက်မျိုးကို မဂ္ဂနက် မမွေးမီ ရှေးနှစ်ထောင်ပေါင်းများစွာကပင် တရုပ်လူမျိုးတို့ တွေ့ရှိကာ လမ်းပြအိမ်မြှောင်အဖြစ် အသုံးပြုခဲ့ကြလေသည်။ ဂရိနှင့် ဟီဗြူး စာပေများတွင်လည်း လမ်းညွှန်ကျောက်နှင့် စပ်လျဉ်းသော အထောက်အထားများကို တွေ့ရလေသည်။ လမ်းညွှန်ကျောက်ဟု ခေါ်ဆိုခြင်းမှာ ဤကျောက်ကို ခါးလယ်မှ ကြိုးဖြင့်ချည်ပြီး တွဲလွဲဆွဲထားသောအခါ' တခုတည်းသောအရပ်(တောင်နှင့်မြောက်) သို့သာ အမြဲတန်း ညွှန်ပြနေသဖြင့် လမ်းစပျောက်နေသူ တဦးသည် မိမိသွားလိုရာအရပ်မျက်နှာသို့ သွားနိုင်သည့်အတွက်ဖြစ်လေသည်။ လမ်းညွှန်ကျောက်ဟု ခေါ်စမှတ်ပြုငြားသော်လည်း အမှန်စင်စစ် ကျောက်မဟုတ်ပဲ သဘာဝသံလိုက်ဓာတ်ပါရှိသည့် အုန်းခွံရောင် သံရိုင်းသာဖြစ်၏။ ထိုသံရိုင်းကို ဓာတုဗေဒနယ်တွင် မဂ္ဂနက်တိုက် ဟူ၍ ခေါ်လေသည်။

သံလိုက်ကိုလူတို့၏အတတ်ပညာဖြင့်လည်းသံ၊သို့မဟုတ် သံမဏိများမှ ပြုလုပ်နိုင်သည်။ ထိုလူလုပ် သံလိုက်များကို အပြားချောင်း အနေနှင့်ဖြစ်စေ၊ မြင်းခွာပုံ အနေနှင့် ဖြစ်စေ တွေ့ရတတ်သည်။ သံလိုက်များတွင် ထာဝရ သံလိုက်နှင့် ယာယီသံလိုက်ဟူ၍ နှစ်မျိုးခွဲထားသည်။ သံပျော့တချောင်း၏ အနီးတွင် သံလိုက်ချောင်းတခုကို နီးကပ်စွာ ထားသောအခါ ထိုသံချောင်း၌ သံနှင့် သံမှုန်များကို ဆွဲငင်နိုင်သည့် သတ္တိပေါ်လာလိမ့်မည်။ သို့ရာတွင် သံလိုက်ချောင်းကိုဖယ်လိုက်သည်နှင့် တပြိုင်နက် ထိုသံပျော့၌ ရှိသည့် သံလိုက်ဓာတ်လည်း ပျောက်သွားလေသည်။ ဤသို့ဖြစ်သော သံပျော့ချောင်းကို ယာယီသံလိုက်ဟု ခေါ်သည်။ သို့ရာတွင် သံပျော့ချောင်းအစား၊ ချပ်အပ်တချောင်းကို အသုံးပြုလျှင်ကား သံလိုက်ဓာတ် အချို့သည် အချိန်ကြာမြင့်စွာ ကျန်နေရစ်သည်ကို တွေ့ရလိမ့်မည်။ ထိုကြောင့် ထာဝရသံလိုက်ကို အလိုရှိသောအခါ အလွန်မာသော သံ၊ သို့မဟုတ် သံမဏိမှ ပြုလုပ်ရလေသည်။

သံတချောင်းကို သံလိုက်ဖြင့် တဖက်သတ် အထပ်ထပ် ပွတ်တိုက်ပေးခြင်းဖြင့်၎င်း၊ သံချောင်းကို တောင်နှင့်မြောက် တန်းထားပြီးလျှင် မြောက်ဖက်အစွန်းကို အောက်နည်းနည်းစိုက်ပေးကာ တောင်ဖက်အစွန်းကို တူဖြင့် ခပ်နာနာ ထုပေးခြင်းဖြင့်၎င်း သံလိုက် ဖြစ်စေနိုင်သည်။ ဤ ဒုတိယနည်းဖြင့် ပြုလုပ်ရရှိသော သံလိုက်ကို အရှေ့နှင့် အနောက်တန်းထားပြီးသော် တူနှင့်တဖန်ထုပေးသောအခါ သံလိုက်ဓာတ် ပျောက်သွားပြန်လေသည်။သံလိုက်ဓာတ်ကို အလွယ်ဆုံးဖျက်ပစ်နိုင်သည့်နည်းမှာမူ သံလိုက်ကို နီရဲလာသည်အထိ မီးဖုတ်ပေးခြင်းပင် ဖြစ်လေသည်။

သံလိုက်တခုကို သံမှုန့်ထဲသို့ နှစ်လိုက်လျှင် သံမှုန့်သည် သံလိုက်၏ အချို့နေရာများတွင် အခြားနေရာများမှာထက် ပိုမိုမြောက်မြားစွာ တွယ်ကပ်နေသည်ကို တွေ့ရ၏။ ထိုနေရာများကို သံလိုက်စွန်းများဟု ခေါ်သည်။ ထိုသံလိုက်ကို ခါးလယ်မှ ကြိုးနှင့်ချည်ပြီးလျှင် တွဲလွဲဆွဲထားသောအခါ သံလိုက်၏ အစွန်းနှစ်ဖက်သည် မြောက်နှင့်တောင်အရပ်သို့ ညွှန်လျက် ရပ်တည်နေပေလိမ့်မည်။ မြောက်ဖက်သို့ လှည့်နေသော အစွန်းကို မြောက်စွန်းဟု ခေါ်၍၊ တောင်ဖက်

သို့လှည့်နေသော အစွန်းကို တောင်စွန်းဟု ခေါ်လေသည်။ အိမ်မြှောင်မှာ ဤသဘောကိုယူ၍ အလယ်ဗဟို၌ ဆုံလည်တပ်ထားသော သံလိုက်ပင်ဖြစ်လေသည်။

သံလိုက်တိုင်း၌ရှိသော အစွန်းနှစ်ဖက်တွင် သံမှုန်သမျှကို ညီတူညီမျှ ဆွဲငင်နိုင်သည့်အားရှိသည်။ သို့ရာတွင် သံလိုက်နှစ်ခုကိုယှဉ်ထားလိုက်သောအခါ၌ တောင်နှင့်မြောက်စွန်း (ဝါ) ဆန့်ကျင်ဖက် အစွန်းခြင်းသာလျှင် တခုကို တခု ဆွဲငင်ကြ၍ အမျိုးတူအစွန်း အချင်းချင်းကား တခုကိုတခု တွန်းဖယ်ကြလေသည်။

သံလိုက်ကို အသုံးမပြုပဲ ပစ်ထားလျှင် သံလိုက်ဓာတ် တဖြည်းဖြည်း ယုတ်လျော့သွားတတ်သည်။ ထို့ကြောင့် မြင်းခွာပုံ သံလိုက်ဖြစ်က အသုံးမပြုသော အချိန်တွင် သံလိုက်ထိန်းဟု ဆိုအပ်သော သံတုံးကလေးတခုကို သံလိုက်၏ထိပ်တွင် တပ်၍ထားရသည်။ သံလိုက်ချောင်းဖြစ်ပါက သံလိုက် နှစ်ချောင်းကို တခု၏ တောင်စွန်းနှင့် အခြားတခု၏ မြောက်စွန်းတို့ကို ထိတွေ့စေလျက် အစုံလိုက် ပူးပြီး ထားရလေသည်။

သံလိုက်သည် သံနှင့် သံမဏိကို အဆွဲငင်ဆုံး ဖြစ်၍ နစ်ကယ်၊ အလျူမီနမ်၊ ကရိုမီယမ်နှင့် ပလက်တီနမ်စသော သတ္တုများကိုလည်း အနည်းငယ်မျှ ဆွဲငင်နိုင်သည်။ သို့သော် အထက်ပါသတ္တုများမှအပဖြစ်သော အခြားအရာများကိုမူ များသောအားဖြင့် အနည်းငယ်မျှပင် တွန်းဖယ်ပစ်ပေသေးသည်။

သံလိုက်တွင် အခြားအရာဝတ္ထုများနည်းတူ မျက်စိဖြင့် မမြင်နိုင်လောက်အောင် သေးငယ်သည့် မော်လီကျူးများ ပါရှိ၍ ထိုမော်လီကျူးတိုင်းသည် သဘာဝသံလိုက်ဖြစ်သည်ဟု ယူဆရလေသည်။ သံလိုက်တခုတွင် သံလိုက်မော်လီကျူးများသည် အလိုက်သင့် စီတန်းပြီးနေကြသည်။ သံလိုက်မဟုတ်သော သံရိုးရိုးတွင်မူ ထိုမော်လီကျူးတို့သည် စည်းမဲ့ကမ်းမဲ့ တည်နေကြကာ အချင်းချင်း အားမျှနေသည့်အတွက် သံလိုက်ဓာတ်သည် အပြင်သို့ ထွက်ပေါ်၍ မလာချေ။

သံလိုက်ဓာတ်အကြောင်းကို ပဌမဦးစွာ နှိုက်နှိုက်ချွတ်ချွတ် လေ့လာသူမှာ ဒေါက်တာ ဝီလျံ ဂီးလဗတ်(၁၅၄၀–၁၆၀၃ ခုနှစ်)ဖြစ်သည်။ သူသည် အင်္ဂလန်ပြည်၌ ပဌမအယ်လစ်ဇဗက် ဘုရင်မကြီးလက်ထက်တွင် ကျော်ကြားသော သိပ္ပံပညာရှင်ကြီးတဦးဖြစ်၍ ထိုဘုရင်မကြီး၏ သမားတော်ကြီးလည်း ဖြစ်လေသည်။ သူသည်သံလိုက်ဓာတ်နှင့်စပ်လျဉ်း၍ အနှစ်နှစ်အလလ စမ်းသပ်လေ့လာပြီးလျှင် နောက်ဆုံးတွင် ကျွန်ုပ်တို့ကမ္ဘာကြီးကိုယ်တိုင် တောင်နှင့်မြောက် တန်းနေသည့် ရောမသံလိုက်ကြီးတခုကဲ့သို့ ပြုမူလျက်ရှိသည်ဟု ဆုံးဖြတ်ချက်ချလေ့သည်။

ဤဆုံးဖြတ်ချက်ကို ယခုအခါ တကမ္ဘာလုံးက လက်ခံလျက်ရှိပေပြီ။ သို့ရာတွင် အဘယ်ကြောင့် ဤသို့ဖြစ်ရသနည်းဟူသော အမေးကို ဖြေရန်မှာ မလွယ်ကူလှပေ။ သိပ္ပံပညာရှင်ကြီးတို့၏ ယူဆချက်တရပ်အရ ဆိုလျှင် ကမ္ဘာကြီး၏ အတွင်းပိုင်းသည် သံတုံး သံခဲကြီးဖြစ်၍ ကမ္ဘာကြီးကို ရစ်ပတ်ဝန်းရံထားသော လေထု၏ အပြင်ပိုင်းတွင် လျှပ်စစ်ဓာတ် ဝင်နေသည့် အမှုန်ကလေးများ အမြောက်အမြားရှိသည်။ ကမ္ဘာလုံးသည် အနောက်မှ အရှေ့သို့ လည်ပတ်လျက်ရှိသည်နှင့်အမျှ ဤအမှုန်ကလေးများသည်လည်း ကမ္ဘာကို ပတ်ချာလှည့်လျက် ရှိကြသည်။ ထို့ကြောင့် လျှပ်စစ်ဓာတ်စီးကြောင်းတခုသည် ကမ္ဘာကို ပတ်ကာ အစဉ်အမြဲစီးလျက်ရှိပြီးလျှင် ကမ္ဘာကြီးကို သံလိုက်ဖြစ်သွားစေသည်ဟု ဆိုသည်။

ဤ ကမ္ဘာ့သံလိုက်ကြီးတွင် တောင်ဖက် အစွန်းနှင့် မြောက်ဖက်အစွန်းဟူ၍အစွန်းနှစ်ခုရှိရာ အိမ်မြှောင်သံလိုက်ကလေးတခုကို ငြိမ်ငြိမ် သက်သက် ထားသောအခါ၌ တောင်နှင့်မြောက် တန်းနေခြင်းမှာ အဆိုပါ အစွန်းနှစ်ခုတို့၏ ဆွဲငင်မှုကြောင့်ပင် ဖြစ်လေသည်။ သို့ရာတွင် ဤကမ္ဘာ့သံလိုက်စွန်းနှစ်ခုတို့၏ တည်နေရာများမှာ ကမ္ဘာ့ဝင်ရိုးစွန်းအမှတ်တို့နှင့် တထပ်တည်း မကျကြပေ။ တဖန် တနေရာတည်းတွင် အမြဲတည်ပြီး မနေကြပဲ တနေ့မှ တနေ့သို့ တရာသီမှ တရာသီသို့ အစဉ်သဖြင့် မသိမသာရွေ့လျက်ရှိကြသည်။ အိမ်မြှောင်ကိုကြည့်ပြီးလျှင် အလုပ်လုပ်ကြရသော သင်္ဘောကက်ပတိန်တို့သည် ကမ္ဘာ့သံလိုက်စွန်းတည်နေရာပြ မြေပုံများ ရှိနေသည့်အတွက် အခက်အခဲနှင့် မတွေ့ကြုံကြရပေ။

တနေရာတွင် သံရိုးရိုးတခုကို သံလိုက်တခုဖြင့် နီးကပ်စေက ထိုသံရိုးရိုးတွင် သံလိုက်ဓာတ် ဖြစ်ပေါ်လာသည့် အကြောင်းကို ဖော်ပြခဲ့ပြီ။ ဤသံလိုက်ဓာတ်မျိုးကို သံလိုက်၏ ညှို့မှုကြောင့် ဖြစ်ပေါ်လာသည့် သံလိုက်ဓာတ်ဟု ဆိုရသည်။ သံရိုးရိုးတချောင်းကို တောင်နှင့်မြောက်တန်းထားပြီးလျှင် တူနှင့်ထုပေးသောအခါ၌ သံလိုက်ဓာတ်ဖြစ်ပေါ်လာခြင်းမှာလည်း ကမ္ဘာ့သံလိုက်၏ ညှို့မှုကြောင့်ပင် ဖြစ်လေသည်။

အထက်ပါ သံလိုက်ဓာတ်မျိုးကို သံလိုက်အစား လျှပ်စစ်ဓာတ်ကို အသုံးပြုခြင်းဖြင့်လည်း ပြုလုပ်ယူနိုင်သည်။ ထိုသို့ ပြုလုပ်ရရှိသော သံလိုက်ကို လျှပ်စစ်သံလိုက်ဟု ခေါ်သည်။ လျှပ်စစ်သံလိုက်ပြုလုပ်ပုံ သဘောမှာ သံလိုက်ဖြစ်စေလိုသော သံပျော့တချောင်းကို ဗဟိုတွင်ထား၍ လျှပ်စစ်ဓာတ် မကူးအောင် ပြုလုပ်ထားသည့် နန်းကြိုးတပင်ဖြင့် ထိုသံချောင်းကို အထပ်ထပ် ရစ်ပတ်ပေးထားပြီးလျှင် နန်းကြိုး၏အစနှစ်ခုကို လျှပ်စစ်ဓာတ်အိုး(ဗက်ထရီ)၊သို့မဟုတ်

လျှပ်စစ်ဓာတ်ကြိုးနှင့် ဆက်ထားရသည်။ ထိုနောက် နန်းကြိုးတလျှောက် လျှပ်စစ်ဓာတ်ကို စီးစေသောအခါ လျှပ်စစ်ဓာတ် စီးနေသည့်အခိုက်အတန့်တွင် အထက်ပါ သံချောင်းသည် သံလိုက်ဖြစ်သွား၍ လျှပ်စစ်ဓာတ်ကို ဖြတ်လိုက်သည်နှင့် တပြိုင်နက် သံလိုက်ဓာတ်လည်းပျောက်သွားပြန်လေသည်။ လျှပ်စစ်သံလိုက်တွင် နန်းကြိုး၏ အပတ်ပေါင်းများလေလေ သံလိုက်ဓာတ်အားမှာ ကြီးလေလေဖြစ်သည်။ ထိုသံလိုက်သည် ခေတ္တခဏသာလျှင် သံလိုက်ဓာတ်ရှိသည့် အတွက် ယာယီသံလိုက်မျှသာ ဖြစ်ကြောင်း သိအပ်ပေသည်။

ခေတ်မီ သံနှင့်သံမဏိ အလုပ်ရုံကြီးများသို့ သွားရောက်ကြည့်ရှုမည် ဆိုပါက သယ်စရာ၊ ညှပ်စရာဆို၍ ဘာတခုမျှ မျက်မြင်မရှိဘဲသော အလွန်ထူးဆန်းသည့် ကုန်တင်ကုန်ချ မောင်းတမျိုးကို တွေ့နိုင်လေသည်။ ထိုမောင်းမှာ လျှပ်စစ်သံလိုက်ဓာတ်ကို အသုံးပြုထားသော သံလိုက်မောင်းပင် ဖြစ်သည်။ တန်ပေါင်းများစွာ အလေးချိန်စီးသည့် သံတိုသံစ၊ သံတုံးသံခဲများကို တနေရာမှ တနေရာသို့ အခက်အခဲမရှိပဲ သယ်ဆောင်လျက်ရှိသော ထိုမောင်းကြီးတို့၏ သတ္တိမှာ အံ့ဖွယ်တရပ်ပင် ဖြစ်တော့သည်။

လူခေါ် ခေါင်းလောင်းကလေးမှအစ၊ စကားပြောကြေးနန်း၊ သဖင်းပို့ကြေးနန်း၊ ဝိုင်ယာလက်၊ ရေဒီယို၊ တယ်လီဗစ်ရှင်း၊ ဒိုင်နမို၊ သံလိုက်ရေမြှုပ်ဗုံးစသော လူ့အသုံးအဆောင်ပစ္စည်း ကရိယာနှင့် လက်နက်အမျိုးမျိုးတို့မှာလည်း သံလိုက်အပေါ်မှာပင် အခြေတည်ပြီး ပြုလုပ်



ခေတ်မီ သံနှင့်သံမဏိအလုပ်ရုံကြီးများအတွင်းရှိ သံလိုက်အားကို အသုံးပြုထားသော သံလိုက်မောင်းကြီးများ

ထားသည့် အရာများသာ ဖြစ်သည်။ တနည်းအားဖြင့် ဆိုရသော် သံလိုက်သည် ကျွန်ုပ်တို့၏ ခေတ်မှီပညာရပ် အသီးအသီးနှင့် လုပ်ငန်းအသီးအသီးတွင် အခြေခံအုတ်မြစ်တခု သဖွယ်ပင် ဖြစ်လျက်ရှိရာ သံလိုက်နှင့် သံလိုက်ခေတ်တို့၏ အရေးကြီး အသုံးဝင်ပုံကိုသာ တွေ့ရှိအသုံးချတတ်ခြင်း မရှိပါက ကျွန်ုပ်တို့၏မျက်မှောက်ခေတ်ကြီးသည်လည်း ယခုလောက်တိုးတက်နိုင်စရာအကြောင်းမရှိဟု ဆိုရပေမည်။

**သံလိုက်အိမ်မြှောင်။** ။မြောက်အရပ်ကို ညွှန်ပြရန် သံလိုက်ဖြင့် စီမံပြုလုပ်ထားသော ကရိယာကို သံလိုက်အိမ်မြှောင်ဟု ခေါ်သည်။ ထိုအိမ်မြှောင်ဖြင့် မြောက်အရပ်ကို သိခြင်းကြောင့် ကျန်အရပ်သုံးမျက်နှာကိုလည်း သိရှိနိုင်သည်။ အိမ်မြှောင်ကို အလွယ်ဆုံး ပြုလုပ်နည်းမှာ သံလိုက်တခုနှင့် ပွတ်ထားသော အပ်တချောင်းကို ဖော့တွင် ထိုးသွင်းပြီးနောက် ရေစလုံထဲတွင် ချထားခြင်းပင် ဖြစ်၏။ ထိုအခါ အပ်သည် မြောက်နှင့် တောင်ကို ညွှန်ပြ၍ ငြိမ်သက်စွာ နေသည်ကို တွေ့ရမည်။ ထိုသံလိုက်အပ်ကိုပင် အလယ်တည့်တည့်မှ အပ်ခြည်မျှင်သေးသေးဖြင့် ချည်၍ ဆွဲထားလျှင်လည်း အပ်သည် မြောက်နှင့် တောင်ကို ညွှန်ပြနေမည်ကို တဖန် တွေ့ရပေမည်။

သံလိုက်အိမ်မြှောင်ကို ပဌမဆုံး မည်သူက စတင်တီထွင်ခဲ့သည်ကို မည်သူမျှ မပြောနိုင်သော်လည်း ခရစ်နှစ် ၁၂၈၂ ခုလောက်ကမှ အိမ်မြှောင်ကို စတင်၍ အသုံးပြုလာခဲ့သည်ကိုမူ သိရလေသည်။ အိမ်မြှောင်မပေါ်မီ နှစ်ထောင်ပေါင်း များစွာက ပင်လယ် ခရီးသွားတို့သည် အိမ်မြှောင် မရှိသောကြောင့် ကမ်းခြေတလျှောက် နေ့အချိန်များ၌သာ သွားလာကြ၍ ပင်လယ်ထဲသို့ ရဲရဲဝံ့ဝံ့ မထွက်ဝံ့ကြချေ။ ကြယ်များကိုကြည့်၍ ပင်လယ်ခရီးကို အထိုက်အလျောက် သွားလာနိုင်ခဲ့ကြသော်လည်း အိမ်မြှောင်ကြည့်၍ သွားရသကဲ့သို့ကား လမ်းခရီးကို တိကျမှန်ကန်စွာ မသိနိုင်ချေ။ အိမ်မြှောင် ပေါ်လာပြီးသည့်နောက်တွင်မှ ပင်လယ်ခရီး သွားလာမှုသည် တမျိုးတမည် တိုးတက် ပြောင်းလဲလာခဲ့ပေသည်။ ဤကဲ့သို့ အိမ်မြှောင်များသာ မပေါ်ပေါက်ခဲ့ပါက ကိုလံဗပ်သည် အတ္တလန္တိတ် သမုဒ္ဒရာကြီးကိုဖြတ်၍ ကမ္ဘာသစ် (အမေရိကတိုက်)ကို တွေ့လိမ့်မည် မဟုတ်ချေ။ ဗက်စကို ဒါ ဂါးမသည်လည်း အာဖရိကတောင်ပိုင်းမှလှည့်၍ အိန္ဒိယပြည်သို့ သွားရာ ပင်လယ်လမ်းခရီးကို တွေ့လိမ့်မည် မဟုတ်ချေ။ ထိုစဉ်အခါက ကိုလံဗပ် အသုံးပြုခဲ့သော အိမ်မြှောင်မှာ ရှေးခေတ် အိမ်မြှောင်ကို ပြုပြင်ထားသဖြင့် ယခုခေတ်သုံး အိမ်မြှောင်နှင့် ခပ်ဆင်ဆင် တူလေသည်။

သံလိုက်အိမ်မြှောင်သည် မြောက်အရပ်ကို ညွှန်ပြသည်ဟု ဆိုရသော်လည်း ပထဝီဝင် အလိုအရ မြောက်အရပ်အမှန် တည်ရှိရာ မြောက်စူးစူးသို့ တည့်တည့် ညွှန်ပြခြင်းကား မဟုတ်ပေ။ (သံလိုက်ပြ မြောက်ဝင်ရိုးစွန်းသည် ပထဝီဝင်ပြ မြောက်ဝင်ရိုးစွန်းဖြစ်သော မြောက်ဝင်ရိုးစွန်းအမှန်မှ အနောက်တောင်ဖက် မိုင် ၇၀၀ အကွာ ဂရင်းလန်းကျွန်းနှင့် ကနေဒါနိုင်ငံတို့၏ ကြားတနေရာတွင် ရှိသည်။) အင်္ဂလန်ပြည်တွင် အိမ်မြှောင်အပ်သည် မြောက်စူးစူးမှ အနောက်သို့ ၁၂ ဒီဂရီခန့် တိမ်းစောင်း၍ ညွှန်ပြသည်။ ကမ္ဘာပေါ်ရှိ အခြား နေရာများ၌လည်း တိမ်းစောင်းပုံ ဒီဂရီအမျိုးမျိုးဖြင့် ညွှန်ပြ၏။ အချို့နေရာ၌ မြောက်စူးစူးမှ အရှေ့ဖက်သို့ပင် တိမ်းစောင်း ညွှန်ပြကြသည်။ အိမ်မြှောင်အပ် ညွှန်ပြသော မြောက်အရပ်ကို သံလိုက်ပြ မြောက်အရပ်ဟု ခေါ်သည်။ မြောက်အရပ်အမှန်နှင့် သံလိုက်ပြ မြောက်အရပ်အကြားရှိ ထောင့်ကို သံလိုက်လှဲ့ထောင့်ဟု ခေါ်သည်။ ထို့ကြောင့် အင်္ဂလန်ပြည်တွင် သံလိုက် အတိမ်းသည် အနောက်သို့ ၁၂ ဒီဂရီ (၁၂° အနောက်) ဖြစ်သည်ဟု ဆိုရသည်။ အင်္ဂလန်တွင် သံလိုက်အိမ်မြှောင်အရ ညွှန်ပြရာအရပ်သည် ၄၀ ဒီဂရီ အရှေ့ဖြစ်သည်ဟု ဆိုပါစို့။ ထိုအခါ ညွှန်ရာအရပ်မှန်သည် (၄၀–၁၂) =၂၈ ဒီဂရီအရှေ့ဖြစ်၏။ အကယ်၍ အိမ်မြှောင်အရ ၄၀ ဒီဂရီ အနောက်သို့ ညွှန်ပြနေပါက ညွှန်ရာအရပ်မှန်သည် (၄၀+၁၂)=၅၂ ဒီဂရီအနောက် ဖြစ်လေသည်။

မြောက်ဝင်ရိုးစွန်း၊ တောင်ဝင်ရိုးစွန်းတို့နှင့် နီးကပ်သော နေရာများ၌ သံလိုက်အတိမ်း အလွန်များနိုင်သည်။ ပုံပမာ သံလိုက်တိမ်း ထောင့်သည် အိုက်စလန်ကျွန်း၌ (၃၀° အနောက်)၊ ဂရင်းလန်းကျွန်း၏ တောင်ဖက် အစွန်းဆုံး၌ (၄၀° အနောက်)၊ ချီလီနိုင်ငံတောင်ပိုင်း၌ (၂၀° အရှေ့) စသည်ဖြင့် အမျိုးမျိုးရှိကြသည်။ သံလိုက်အတိမ်းသည် တနှစ်နှင့်တနှစ် မတူပဲ တဖြည်းဖြည်း ပြောင်းလဲလျက်ရှိရာ အချို့နေရာများ၌ ၁၀ နှစ်အတွင်း နှစ်ဒီဂရီမျှ ကွာသွားသည်အထိ ပြောင်းလဲသည်ကို တွေ့ရလေသည်။

ရှေးခေတ် သင်္ဘောများတွင် အသုံးပြုခဲ့ကြသော အိမ်မြှောင်မှာ ရေပေါ် အိမ်မြှောင်မျိုးပင်ဖြစ်သည်။ ယခုခေတ်၌မူ သင်္ဘောသုံး အိမ်မြှောင်များတွင် အိမ်မြှောင်သံလိုက်သည် ရေတွင် ပေါ်မနေပဲ လွတ်လပ်စွာ လည်ပတ်နိုင်သောဆုံလည်ဖြင့် တပ်ဆင်ထားသည်။ ထိုအိမ်မြှောင်မျိုးတွင် အိမ်မြှောင်အပ်ကို မမြင်ရချေ။ အိမ်မြှောင်အပ်အစား အိမ်မြှောင် ညွှန်ပြရာအရပ်များ သတ်မှတ် ရေးသားထားသည့် ချပ်ပြားဝိုင်းကိုသာ တွေ့ရလေသည်။ ထိုချပ်ပြားဝိုင်းတွင် အရှေ့၊ အနောက်၊ တောင်၊ မြောက်အပြင် အသေးစိတ်အမှတ်များ ပါရှိသည်။ ချပ်ပြား၏ အလယ်တွင် သတ္တုအစွပ်တခုရှိ၍ ထိုအစွပ်အတွင်း၌ ကတော့ပုံ အပေါက်


ရှေးခေတ်သင်္ဘောများတွင် အသုံးပြုခဲ့သည့် သံလိုက်အိမ်မြှောင်

ဖောက်ထားသော ပတ္တမြားကဲ့သို့သောကျောက် သွင်းထားသည်။ ထိုကျောက်တွင် ဆုံလည်တိုင် ခံထားသည်။ ချပ်ပြား၏ အောက်တွင် သံလိုက်တခုတည်း မဟုတ်ပဲ အများ တပ်ဆင်ထားသည်။ တပ်ဆင်ထားပုံမှာ ချပ်ဝိုင်းပေါ်က မြောက်စွန်းနှင့် သံလိုက်ပြ မြောက်အရပ်တို့ တတန်းတည်း ဖြစ်ရအောင် ချည်ခင်များဖြင့် ထိန်းထားသည်။ သံလိုက် တပ်ဆင်ထားသော ဆုံလည်တပ် ချပ်ပြားတခုလုံးကို ခွက်တွင် ထည့်ထားသည်။ ခွက်အနားပေါ်တွင် ချပ်ပြား၏ အနားစွန်းနှင့် ကပ်၍ သင်္ဘောဦးတည့်တည့်ကို မှတ်ထားလေသည်။ ထိုအမှတ်ကို "လပ်ဗား" (သင်္ဘောဦးပြ အမှတ်)ဟု ခေါ်သည်။

အိမ်မြှောင်ခွက်တွင် အရည်တမျိုးကို ထည့်ထား၍ ထိုအရည်ပေါ်တွင် သံလိုက်နှင့် ချပ်ဝိုင်းကို ပေါလောပေါ်နေစေသည်။ ချပ်ဝိုင်းတခုလုံး၏ အလေးချိန်ကို အရည်က ဖော့ပေးသည့်အပြင် ချပ်ပြားကို ကြာရှည်လှုပ်မနေအောင်လည်း ထိန်းထားပေးလေသည်။ တဖန် သင်္ဘောယိမ်းထိုးသောအခါ အိမ်မြှောင်ခွက် မတိမ်းမစောင်းရအောင် အိမ်မြှောင်ခွက်ကို "ဂင်းဗာ"ခေါ် ရေပြင်ညီထိန်းကွင်းပေါ်တွင် တပ်ဆင်ထားပြန်သည်။ ထိုကြောင့် အောက်ခံခုံသည် မည်သည့်ဖက်သို့ပင် တိမ်းစောင်းသွားစေကာမူ အိမ်မြှောင်ခွက် မျက်နှာပြင်မှာ အစဉ်သဖြင့် ရေပြင်ညီ တည်လျက်သာ နေသည်။ အိမ်မြှောင်တပ်ဆင်ထားသော အိမ်မြှောင်အိမ် တခုလုံးကို "ဗင်နက်ကဲ" (သင်္ဘောအိမ်မြှောင်အိမ်)ဟု ခေါ်သည်။

ရှေးခေတ် သစ်သား သင်္ဘောများ၌ အိမ်မြှောင်အပ်သည် အစဉ်သဖြင့် သံလိုက်ပြ မြောက်အရပ်ကို ညွှန်ပြသည်။ သို့ရာတွင် ယခုခေတ်၌ကား သင်္ဘောအားလုံးလိုလိုပင် သံထည်နှင့် ဆောက်ထားရာ ထိုသံထည်များသည် သင်္ဘောအိမ်မြှောင်ကို မှန်ကန်စွာ မပြနိုင်အောင် နှောင့်ရှက်တတ်၏။ ထိုကြောင့် အိမ်မြှောင်နှင့် အသင့်အတင့် အကွာအဝေးတွင် ခေါင်းပွသံလုံး နှစ်လုံးကို တပ်ဆင်ထားခြင်းဖြင့် ဤနှောက်ရှက်မှုမှ လုံးလုံးလို လွတ်ကင်းနိုင်လေသည်။

လေယာဉ်ပျံများတွင် သီးသန့်ပြုလုပ်ထားသော အိမ်မြှောင်တမျိုးကို အသုံးပြု၍ ယင်းအိမ်မြှောင်မျိုးကို "အပီရီယော့ဒစ် အိမ်မြှောင်" ဟု ခေါ်၏။ ဤအိမ်မြှောင်မျိုးသည် လေယာဉ်ပျံ၏ တုန်ခါမှုများကို ကောင်းစွာ ခံနိုင်ရည်ရှိသည်။ ၁၉၁၁ ခုနှစ်မှစ၍လည်း စစ်သင်္ဘောများတွင် "ဂျိုင်ရိုအိမ်မြှောင်" ခေါ် အိမ်မြှောင်တမျိုးကို စတင်အသုံးပြုခဲ့ကြသည်။ ဂျိုင်ရိုအိမ်မြှောင်၏ ထူးခြားချက်မှာ ကမ္ဘာ့သံလိုက်ဓာတ်ပေါ်၌ အလျှင်းမှီခိုခြင်းမပြုသည့်အချက်ပင်ဖြစ်လေသည်။

**သံလျင်မြို့။** ။သံလျင်မြို့သည် ဟံသာဝတီခရိုင် သံလျင်နယ်နှင့် သံလျင်မြို့နယ်တို့၏ ရုံးစိုက်မြို့ဖြစ်ခဲ့ရုံမက ၁၉၅၇ ခုနှစ် ဒီဇင်ဘာလ ၂၂ ရက်နေ့မှစ၍ ဟံသာဝတီခရိုင်၏ ရုံးစိုက်ရာမြို့ ဖြစ်လာခဲ့သည်။ ယခု ရန်ကုန်တိုင်း သံလျင်မြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ ယခင်က သံလျင်နယ်တွင် ကျောက်တန်းမြို့နယ်၊ သုံးခွမြို့နယ်၊ ခရမ်းမြို့နယ်နှင့် သံလျင်မြို့နယ်များ ပါဝင်ခဲ့သည်။

သံလျင်မြို့သည် ရှေးမြန်မာဘုရင်များ လက်ထက်ကပင် ထင်ရှားသော မြို့ဖြစ်သည်။ မြို့ကို တည်သူ သေံလျင်အား အစွဲပြု၍ သံလျင်မြို့ဟု တွင်ကြောင်းဖြင့် သံလျင်သမိုင်း၌ ဆိုသည်။ ယခု ကျောက်တန်းမြို့ဟု ခေါ်သော ပါဒရွေးမြို့တော်ကြီး၌ နောက်ဆုံး စိုးစံတော်မူသော အရိန္ဒရာဇာမင်းလက်ထက်တွင် ပါဒမြို့ အရှေ့အရပ်ဝယ် ဘုရားကြီးရွာဟူ၍ ရှိသည်။ ထိုရွာ၌ နေထိုင်ကြသော တောင်သူဇနီးခင်ပွန်း နှစ်ယောက်တို့တွင် ရုပ်လက္ခဏာ ခွန်အားဗလစွမ်းရည်သတ္တိနှင့် ပြည့်စုံ၍ သန်စွမ်းပေါ်ပါး လျင်မြန်သော သေံလျင်ဆိုသူ သားတယောက် ဖွားမြင်သည်။ ယင်းစဉ်ကပင် ထမင်း တယောက်မ ကုန်အောင် စားနိုင်သော ဟူ၏။ ခွန်အားဗလ အလွန်ကြီးသော သား၏ အကြောင်း

ကို မင်းတို့ ကြားသိခဲ့သော် မင်းပြစ်မင်းဒဏ် မလွတ်မကင်း ဖြစ်မည်စိုးသည်ကတကြောင်း၊အစားအသောက်ကြီးသဖြင့် ပြည့်စုံအောင် ရှာဖွေမကျွေးနိုင်မည် စိုးသည်ကတကြောင်း တို့ကြောင့် တနေ့တွင် သားအဖနှစ်ယောက် သီဟဒီပ ကျွန်းဖက်သို့ ကူးသွားကာ သားဖြစ်သူအား ဥပါယ်တံမျဉ် ဖြင့် သစ်ပင်ပိသေအောင် ကြံခဲ့ကာ မိမိနေရင်းအရပ်သို့ ပြန် ခဲ့၏။ သံလျင်လည်း ဘုန်းသမ္ဘာရှင်ဖြစ်သည့်အလျောက် မသေပဲ တောထဲ၌ လှည့်လည် နေထိုင်လေသည်။ ယင်းသို့ နေထိုင်စဉ် တောဝက်ကြီး တကောင်သည် သီဟဒီပကျွန်း သို့ ပတ္တမြားကိုငုံလျက် ကောင်းကင်ခရီးဖြင့် ပျံလာ၍ သဖန်းသီးများကို စားသောက်သည်ကိုမြင်လျှင် တောဝက် ၏ ပတ္တမြားကို လိုချင်သဖြင့် တနေ့တွင် ဝက်ကြီးအလာ ကို စောင့်နေလေသည်။ ဝက်ကြီးရောက်၍ ငုံလာသော ပတ္တမြားကို သစ်ပင်ရင်း၌ ထားကာ သဖန်းသီးများ စား နေစဉ် သံလျင်သည် သစ်ပင်ပေါ်မှ သဖန်းသီးမှည့်များ ကို ဆွတ်၍ အရပ်လေးမျက်နှာ ခပ်ဝေးဝေးသို့ လှမ်းပစ် သော် ဝက်ကြီးလည်း လိုက်လံကောက်ယူလေသည်။ ယင်း သို့ ဝက်ကြီး အဝေးရောက်နေစဉ် သံလျင်သည် သစ်ပင် ထက်မှ ဆင်း၍ ပတ္တမြားကို ယူလိုက်သည်။ ဝက်ကြီး ပြန် လာ၍ ပတ္တမြားကို မတွေ့သဖြင့် ဒေါသထွက်လျက် သဖန်း မြစ်ကို တူးဆွ ရှာဖွေစဉ်တွင် သံလျင်သည် သစ်ပင်ကို နှုတ်ကာဝက်ကြီးကိုရိုက်သတ်သဖြင့်ဝက်ကြီးသေလေသည်။

ပတ္တမြားကိုရသော် သံလျင်သည် ထိုပတ္တမြားကို ငုံ၍ ရန်အောင်မြင်ကုန်း၊ ကျိုက်ဒေးပရင်းကုန်း၊ ကျိုက်ဒေး ဝန်းကုန်းတို့သို့သွားကာ ရသေ့ညီနောင်သုံးဦးအား သိကြား မင်းလှူခဲ့သော ဓားမ၊ မြူတာအိုးနှင့်စည်ယော်တို့ကို ဥပါယ် တံမျဉ်ဖြင့်ယူပြီးလျှင် မိမိဖွားရာ ဘုရားကြီးရွာသို့ ပြန်ခဲ့ သည်။ ထိုအချိန်တွင် ပါဒမြို့တော်၌ စိုးစံနေသည့် အရိန္ဒ ရာဇာမင်းသည် မင်းကျင့်တရား ဆယ်ပါးနှင့်လည်း မညီ၊ သာသနာတော်ကိုလည်း မချီးမြှောက်၊ ရှေးမင်းတို့ ထုံးစံ အရ ပူဇော်မြဲ ထီးဖြူစောင့်နတ် စသော သမာဒေဝနတ် အပေါင်းတို့ကိုလည်း ပူဇော်ပသခြင်း မပြုသဖြင့် ထီးဖြူ စောင့်နတ်သည် လူ၏အသွင်ကိုယူ၍ သံလျင်ရှိရာသို့ လာ ပြီးလျှင် ပါဒမြို့ကို အုပ်ချုပ်မင်းလုပ်ရန် တောင်းပန်လေ သည်။ သံလျင်သည် အမိအဖတို့အား လွှတ်၍ ပါဒ မင်းထံ ထီးနန်းကို တောင်းသော် မရသဖြင့် ကိုယ်တိုင် သွား၍ ထီးနန်းကိုသော်လည်း ပေးအပ်မည်လော၊ စစ် သော်လည်း တိုက်မည်လောဟု ကြွေးကြော်လေ၏။ ပါဒ မင်းလည်း အမတ်ကြီးတဦးအား စစ်သည်ဗိုလ်ပါ ၅၀၀ နှင့် လွှတ်၍ သံလျင်ကို ဖမ်းဆီး သတ်ဖြတ်စေသည်။ အမတ်ကြီးထွက်၍ ဖမ်းဆီးလေသော် သံလျင်သည် စည် ယော်ကို တီးရာ စစ်သည်ဗိုလ်ပါ များစွာ ထွက်၍ တဖက် ရန်သူတို့အား တိုက်စေသည်ကို ပါဒမင်းကြီး ကြားသိလျှင် မိမိကိုယ်တိုင် စစ်သည်ဗိုလ်ပါ များစွာဖြင့် အင်အားရှိသမျှ ဖြင့်၍ တိုက်လေသည်။ သံလျင်သည် မြူတာအိုးကို သွန် မှောက်လိုက်ရာ မြစ်ကြီးခြားပြီးလျှင် တဖက်စီ တားဆီး နေလေ၏။ ထိုနောက် ဓားမကို စေ၍ ပါဒမင်းဦးခေါင်း ကို ဖြတ်စေမှ ပါဒမင်းကြီးအား အောင်မြင်လေသည်။

ပါဒ ထီးနန်းကို ရပြီးနောက် သံလျင်သည် ပတ္တမြား ရရာအရပ်၌ မြို့တည်ထောင်လျှင် သင့်မည်ဟု ကြံစည်ကာ သီဟဒီပကျွန်းသို့ပြန်၍ မြို့တည် မင်းပြုသည်။ သံလျင်မင်း ဟု တွင်သတည်း။ သံလျင်မင်းကို စွဲ၍ သံလျင်မြို့ဟု ခေါ် ဝေါ် သမုတ်ကြလေသည်။ သံလျင်မင်း တည်ခဲ့သော မြို့ ဟောင်း ပုံသဏ္ဌာန်ကို ဆက်စပ်ကြည့်သောအခါ ခြင်္သေ့ သဏ္ဌာန်ဖြစ်သည်။ (၁) ခြင်္သေ့ပါးစပ်ရှိရာ၌ ကွမ်းသီး တံခါး၊ (၂) မျက်လုံးရှိရာ၌ အိုးထိန်းတံခါး၊ (၃) အမောက်ရှိရာ၌ ဒေးဝန်းတံခါး၊ (၄) နားရှိရာ၌ မြင်းတင် တံခါး၊ (၅) လည်ချောင်းရှိရာ၌ ဆင်ထွက်တံခါး၊ (၆) လည်ဆစ်ရှိရာ၌ လဒကုန်းတံခါး၊ (၇) လက်ရှိရာ၌ ဇင်ပြွန်း ကုန်းတံခါး၊ (၈) ချက်ရှိရာ၌ သစ်ဆိမ့်ကုန်းတံခါး၊ (၉) သို့ရှိရာ၌ ကျေးဘုရားတံခါး၊ (၁၀) ဒွါရရှိရာ၌ သောတာ ပန်တံခါး၊ (၁၁) ခါးဆစ်ရှိရာ၌ သရက်လေးပင်တံခါး၊ (၁၂) လက်ပြင်ရှိရာ၌ ဘယတံခါး၊ (၁၃) မြောက်ဖက် ပိဿာတံခါး၊ (၁၄) အရှေ့မြောက်ဖက် ပင်လယ်တံခါး၊ (၁၅) တောင်ဖက် ဝက်သတ်တံခါးတို့ဖြစ်သည်။ သံလျင် မင်းမှ စတင်၍ မြို့တည်ထောင် အုပ်စိုးခဲ့ကြရာ ဘောဂသေ နမင်းလက်ထက် သံလျင်မြို့မင်းဆက် ပြတ်သည်။ ပါဒမြို့၊ သံလျင်မြို့ နှစ်ရပ်ပေါင်းသည်ရှိသော် မင်းဆက်ပေါင်း ၃၆ ဆက် ဖြစ်၏။

သံလျင်မြို့၌ နောက်ဆုံး စိုးစံတော်မူသော ဘောဂ သေနမင်း၏ မိဖုရားကြီးကား သုဝဏ္ဏဘူမိ သထုံပြည်ရှင် ဘုရင်မင်းမြတ်၏ သမီးတော် သုဝဏ္ဏဒေဝီ မင်းသမီးဖြစ် သည်။ ထိုမိဖုရားကြီးတွင် ပဋိသန္ဓေတည်၍ နေ့လစေ့ သော် မဖွားမြင်နိုင်သဖြင့် နတ်ရွာစံလေ၏။ မိဖုရားကြီး၏ အလောင်းကို မြို့၏အနောက် သုဿာန်သို့ ထုတ်ဆောင်၍ မီးသင်္ဂြိုဟ်ရာ ပဋိသန္ဓေ တည်နေသော သတို့သမီးသည် ဘုန်းကံရှိသူဖြစ်ရာကား မီးမလောင်ကျွမ်းပဲ အမိဝမ်းမှ ပေါက်ထွက် လွင့်စဉ် ဖွားမြင်လေသည်။ သုဿာန်တစပြင် ၌ ဖွားမြင်သော သမီးတော် မွေ့နန်းအား မင်းကြီးသည် မြို့တွင်းသို့ သွင်း၍မဖြစ်သဖြင့် ထိုနေရာ၌ ပင်တိုင်နန်း ဆောက်လုပ်ပြီးလျှင် အမတ်ကြီးနှစ်ယောက်နှင့်တကွ အခြွေ အရံ များစွာဖြင့် အစောင့်အရှောက် ထားတော်မူ၏။ ဘောဂသေနမင်း နတ်ရွာစံသော် နန်းလျာ သားတော်မရှိ သည့်ပြင် သမီးတော် မွေ့နန်းလည်း သုဿာန်တွင် ဖွားသူ

ထိုအချိန်က သံလျင်မြို့သည် မြန်မာနိုင်ငံ အောက်ပိုင်းတွင် ထင်ရှား စည်ကားသော မြို့ဖြစ်သည်။ နိုင်ငံခြား သင်္ဘောများ ဝင်ထွက်ဆိုက်ကပ်ရာ သင်္ဘောဆိပ်မြို့ကြီးလည်း ဖြစ်သည်။ အင်္ဂလိပ်၊ ဒတ်ချ၊ ပြင်သစ် စသော နိုင်ငံခြားသားများကလည်း အဝင်အထွက် များသဖြင့် အရောင်းအဝယ်နှင့် လုပ်ငန်းများဖြင့် စည်ပင်သည်။ စက်ရုံကြီးများလည်း လာရောက်တည်ထောင်ထားကြလေသည်။

အလောင်းဘုရား လက်ထက်ရောက်သောအခါ သံလျင်မြို့သည် မွန်တို့လက်၌ ရောက်ရှိနေလေသည်။ မင်းတရားကြီးသည် အောက်မြန်မာနိုင်ငံကို ချီတက် တိုက်ခိုက်ခဲ့ရာ ၁၁၁၈ ခုနှစ် တန်ခူးလတွင် သံလျင်မြို့သို့ ရောက်သည်။ သံလျင်မြို့ကို အကြိမ်ကြိမ် ချဉ်းကပ်၍ လုပ်ကြံသော်လည်း လက်နက် ထူထပ်သောကြောင့် မချဉ်းကပ်ဝံ့ချေ။ သို့ရာတွင် မြို့တွင်းသို့ ရိက္ခာများ မရောက်စေရန် မြန်မာတို့က ပိတ်ဆို့ထားသဖြင့် မြို့သူမြို့သားများ သစ်ဥသစ်ဖုကိုမျှထွက်၍ မရှာဝံ့ပဲ ငတ်မွတ်လှသောကြောင့် တနေ့လျှင် လူငါးဆယ်ခြောက်ဆယ်ခန့် မြန်မာတို့ဖက်သို့ ထွက်ပြေးဝင်ရောက်လာကြလေသည်။ မျိုးရိက္ခာပြတ်လတ် ငတ်မွတ်ပါ များသဖြင့် သံလျင်မြို့တွင်းမှ ရှိသမျှ လက်နက် လူသူတို့ကို သင်္ဘောခုနစ်စင်းနှင့် ဇလာကပင်ကူရှပ်သမွာန်ကြီးများတွင် တင်ပြီး လျှင် တိုက်လှေကြီး ၅၀၀ ကျော်နှင့်တကွမြို့ကခွာ၍ ပင်လယ်သို့ ထွက်ရန် စီစဉ်လေသည်။ မွန်တို့၏ အကြံအစည်ကို ထွက်ပြေးလာသူတို့မှတဆင့် ကြားတော်မူလျှင် ရေတပ်တော်များကို အင်အားဖြည့်၍ လွှတ်သည်။ အလောင်းမင်းတရားကိုယ်တိုင် သံလျက်စွန်းသို့ သင်္ဘောဖြင့် ထွက်၍ သံလျင်တိုက်ပွဲကို အဝေးကြည့် မှန်ပြောင်းဖြင့် ကြည့်လျက် စစ်ရေးကို စီရင်တော်မူသည်။ လက်ရွေးစင် သူရဲကောင်း ၉၃ ယောက်ကိုလည်း ရွေး၍ လက်နက်အပြည့်အစုံနှင့် မြို့ကို အပြင်းအထန် လုပ်ကြံစေရာ မြို့ပေါက်လေသည်။ ၁၁၁၈ ခုနှစ် ဝါဆိုလတွင် သံလျင်မြို့ မြန်မာတို့လက်သို့ ရောက်ရာ မင်းထင်နော်ရထာကို ဗိုလ်မှူး၊ သတိုးကျော်သူနှင့် ကျော်ထင်သက်တော်ရှည်တို့ကို စစ်ကဲခန့်၍ သံလျင်ကို အုပ်ချုပ်စေသည်။ မင်းတရားကြီးသည် ရန်ကုန်ဟု သမုတ်လိုက်သော ဒဂုန်မြို့ကို ဆိပ်ကမ်းမြို့အဖြစ် ပြုလုပ်လိုက်ရာ သံလျင်မြို့သည် အပျက်အစီး နာပြီးလည်း ဖြစ်သည်အလျောက် အလိုလိုမှေးမှိန်သွားလေသည်။ သံလျင်မြို့သည် ဒဂုန်မြို့လက်အောက်ခံ မြို့ငယ်ကလေးမျှသာ ဖြစ်လာလေသည်။ သံလျင်မြို့၌ မြို့ရိုးဟောင်းနှင့် မြို့တံခါးနေရာများကို အမှတ်အသားကောင်းသော ရှေးလူကြီးများ ယခုတိုင် အမည်နှင့်တကွ ပြသနိုင်ကြသည်။ ၁၅ ရာစုနှစ်ခန့်က ပေါ်တူဂီတို့ တည်ထားခဲ့သော မြို့၏ အကြွင်းအကျန်များကိုမူ ယခုတိုင် တွေ့မြင်နိုင်လေသည်။

ဖြစ်သဖြင့် နန်းမရလေရကား သံလျင်မင်းဆက်ပြတ်လေသည်။ ထိုအချိန်မှစ၍ မြို့စောင့်မြို့စားများ ခန့်အပ် အုပ်ချုပ်လေသည်။ ထိုနောက် မွန်တလှည့် မြန်မာတလှည့် ပိုင်ဆိုင်ပြီးလျှင် မြို့စားမင်းများထား၍ အုပ်ချုပ်လာရာမှ သံလျင်မြို့သည် ယခင်ကလောက် မကြီးကျယ်တော့ပဲ ဘုရားပုထိုးများလည်း များစွာ ပျက်စီးခဲ့လေသည်။

မြန်မာသက္ကရာဇ် ၉၆၀ ပြည့်နှစ်တွင် ဟံသာဝတီပျက်ပြီးသည့်နောက်တွင် ရခိုင်ဘုရင် မင်းရာဇာကြီး၏ ဆန္ဒအရ ဖိလစ် ဒီဗရစ်တို(ငဇင်ကာ)အား သင်္ဘောသုံးစင်း၊ လွန်းကြင် ၁၀၀ ကျော်၊ လူနှစ်ထောင်ခန့်နှင့် သံလျင်တွင် အခိုင်အလုံ တပ်စွဲ နေထိုင်ခွင့်ပေးသည်မှစ၍ သံလျင်မြို့သည် တဖန် မြန်မာနိုင်ငံ သမိုင်းတွင် ထင်ရှားလာပြန်သည်။ မြို့တည်ရာတွင် စီမံပြုလုပ်သော ဗိသုကာ ဇွင်ဆီရီယံကို စွဲ၍ သံလျင်မြို့ကို အင်္ဂလိပ်လို ဆီရီယံမြို့ဟု ခေါ်ကြောင်း အချို့က ဆိုသည်။သို့ရာတွင် ငဇင်ကာမတည်မီ ရှေးအခါကပင် ဆီရီယမ် ခေါ်ခဲ့ကြောင်း မှတ်တမ်းများရှိသဖြင့် သံသယဖြစ်စရာ ရှိသည်။ အချို့ကလည်း သံလျင်သည် မွန်တို့ ဒေသမြို့ဖြစ်သဖြင့် မွန်တို့က ဘျင်စရင်ဟုခေါ်သည်မှ နိုင်ငံခြားသားတို့က မပီမသဖြင့် ဆီရီယမ်း ခေါ်ကြသည်ဟု ဆိုသည်။

ဒီဗရစ်တိုသည် သံလျင်မြို့တွင် အခိုင်အလုံ တပ်စွဲ နေထိုင်ခွင့်ရသည်မှစ၍ ပဲခူးနယ်တဝိုက် တိုက်ခိုက် နယ်ချဲ့ခြင်း၊ ပုသိမ်၊ မုတ္တမ၊ ဒဂုန် စသော သင်္ဘောဆိပ်မြို့များသို့ သွားမည့် သင်္ဘောများကို သံလျင်ဆိပ်သို့သာ ဝင်ရောက်ဆိုက်ကပ်စေ၍ အကောက်ခွန်များ ကောက်ခြင်း၊သံလျင်နှင့် ဟံသာဝတီမြို့ ပတ်ဝန်းကျင်တွင်ရှိသော ဘုရားပုထိုးတို့၏ ဌာပနာတိုက်များကို တူးဖောက်ယူခြင်း၊ ဘုရား ပုထိုး ကျောင်းကန်များတွင် လှူဒါန်းထားသော ကြေးခေါင်းလောင်းကြီးများကို ယူဆောင်၍ အမြောက်သွန်းလုပ်ခြင်းတို့ ပြုလုပ်လေသည်။ ထို့ပြင်မှမက မြန်မာသက္ကရာဇ် ၉၇၄ ခုနှစ်တွင် မုတ္တမဘုရင် ဗညားဒလနှင့် ပူးပေါင်းကာ တောင်ငူမြို့ကို သိမ်းယူ၍ နန်းတော်ကို မီးတိုက်ဖျက်ဆီးပြီးနောက် မြို့စား နတ်သျှင်နောင်ကိုပါ သံလျင်သို့ ယူဆောင်သွားလေသည်။ (ဒီဗရစ်တို။ နတ်သျှင်နောင် — ရှု။) ထိုအကြောင်းကို အနောက်ဖက်လွန် မင်းတရားကြီး ကြားသော် သံလျင်သို့ ရေအား ကြည်းအားနှင့် ချီတက်လုပ်ကြံသည်။ မြို့တွင်းမှနေ၍ ပေါ်တူဂီတို့ အခိုင်အမာ ခံရုံမက မြို့ကို တက်သော မြန်မာစစ်သည်များအား မြို့ထိပ်မှ ပွဲလျက်ရည်၊ ရေတ်ရည်များဖြင့် ဆီးလောင်းခြင်း၊ ဗုံးနှင့် ပစ်ခတ်ခြင်းတို့ ပြုသဖြင့် မြန်မာတို့ အထိအပါး အရှုံးအနများသောကြောင့် မြို့မကျပဲရှိလေသည်။ နောက်ဆုံးမှ မြန်မာတို့၏ မလျှော့သော ဇွဲနှင့် တိုက်ခိုက်မှုကြောင့် သံလျင်စား ဒီဗရစ်တိုနှင့်တကွ တမြို့လုံးကို ရလေသည်။

သံလျှင်မြို့သည် ပဲခူးမြစ်၏ လက်ဝဲဖက် ကမ်းတွင် တည်ရှိ၍ ရန်ကုန်မြစ်၊ ပဲခူးမြစ်နှင့် ပုဇွန်ထောင်ချောင်း တို့ဆုံရာ မြစ်ဝမှ သုံးမိုင်အကွာတွင် တည်ရှိသည်။ ရန်ကုန်မြို့နှင့်လည်း တနာရီလျှင် တခေါက်ကျ ကူးသန်းသွားလာနေသော ကူးတို့သင်္ဘောဖြင့် အဆက်အသွယ်ရှိသဖြင့် အိမ်ဦးနှင့် ကြမ်းပြင်သဖွယ် သွားလာနိုင်လေသည်။ ထို့ပြင် သံလျှင်မြို့မှ ၁၂ မိုင်ဝေးသော ကျောက်တန်းမြို့သို့၎င်း၊ ၂၂ မိုင်ဝေးသော သုံးခွမြို့သို့၎င်း မော်တော်ကားလမ်း ဖောက်လုပ်ထားလေသည်။

သံလျှင်မြို့၏အကျယ်အဝန်းမှာ ၄.၆၀၄ စတုရန်းမိုင် ဖြစ်သည်။သံလျှင်မြို့တွင် အုပ်ချုပ်ရေးဆိုင်ရာရုံးများ၊ အထက်တန်းကျောင်းများ စသည့် အစိုးရအဆောက်အအုံများ ရှိသည်။ ထို့ပြင် မြန်မာ့ရေနံကော်ပိုရေးရှင်း (ယခင် ဘီအိုစီ ကုမ္ပဏီ)၏ ရေနံချက်စက်ရုံကြီး နှစ်ရုံ ရှိသည်။ မြန်မာနိုင်ငံ အထက်ပိုင်းမှ ထွက်သော ရေနံစိမ်းများကို ယခင်က ပိုက်လိုင်းကြီးဖြင့် သွယ်ယူပြီးလျှင် ကန်ကြီးများတွင် သိုလှောင်ကာ ရေနံဆီ၊ ဓာတ်ဆီ၊ ဖယောင်းတိုင်များ ချက်လုပ်ကြသည်။ သံလျှင်မြို့လူထု၏ တဝက်ကျော်သည် ရေနံလုပ်ငန်းဆိုင်ရာ အလုပ်သမားများလိုလိုပင် ဖြစ်ကြသည်။

သံလျှင်နယ်သည် စပါးအကြီးအကျယ် စိုက်ပျိုးသော နယ်လည်းဖြစ်၏။ မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးနောက် လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေးဥပဒေအရ လယ်မြေများကို သိမ်းယူ၍ လယ်သမားများအား ခွဲဝေလုပ်ကိုင်စေခြင်းကို ပဌမဆုံး သံလျှင်နယ်တွင် စမ်းသပ် လုပ်ကိုင်လေသည်။



သံလျှင်မြို့တွင်ရှိ မြန်မာ့ရေနံကော်ပိုရေးရှင်းအဖွဲ့ပိုင် ရေနံချက်စက်ရုံတွင် ချောက်၊ ရေနံချောင်း ရေနံမြေတို့မှထွက်သော ရေနံစိမ်းများကို တွန်းသင်္ဘောများဖြင့် သယ်ယူကာ အဆင့်ဆင့်ချက်ယူလေသည်။

သံလျင်နယ်သည် စပါးလုပ်ငန်း၊ ရေနံလုပ်ငန်းများကြောင့် လူဦးရေ ထူထပ်ပေါများသည်။ ၁၉၇၁ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရ သံလျင်မြို့၏ လူဦးရေ စာရင်း သည် ၁၉,၇၅၄ ယောက်ဖြစ်သည်။

သံလျင်မြို့၏ ထင်ရှားသော ဘုရားမှာ ကျိုက်ခေါက် ဘုရားဖြစ်သည်။ (ကျိုက်ခေါက်ဘုရား—ရှု။) ကျိုက်ခေါက် ဘုရား၏ မြောက်စောင်းတန်းအဆင်းတွင် ဝန်ကြီးပဒေသ ရာဇာ၏အရိုးဂူဆိုသောဂူကို ယခုတိုင်တွေ့မြင်နိုင်လေသည်။ (ပဒေသရာဇာ — လည်းရှု။)

**သံလွင်ပင်။** ။သံလွင်ပင်သည် အိုလီအေးစီအီး မျိုးရင်း တွင်ပါဝင်၍ ရုက္ခဗေဒ အလိုအားဖြင့် အိုလီယာ ယူရိုပီယာ ဟု ခေါ်သည်။ လူတို့ စိုက်ပျိုးကြသော အပင်များတွင် သံလွင်ပင်သည် အလွန်အသက်ရှည်သော သစ်ပင်မျိုးဖြစ် သည်။ အပင်သက်နှစ်ပေါင်း ၇၀၀ ခန့်ရှိသော သံလွင်ပင် အိုကြီးများကို ယနေ့တိုင် တွေ့မြင်နိုင်သေးသည်။ လုံးပတ် အားဖြင့်လည်း ပေ ၂၀ ကျော်အထိ ရှိတတ်သည်။ သို့ရာ တွင် ယခုအချိန်အခါ၌ လူတို့စိုက်ပျိုးထားကြသော သံလွင် ပင်များမှာ အမြင့်ပေ ၃၀ ထက်မကျော်ရအောင် အကိုင်း အခက်တို့ကို မကြာခဏ ချိုင်ပစ်ကြသည်။ သံလွင်ပင် စိုက်ပျိုးသည့် လုပ်ငန်းမှာလည်း အလွန်ရှေးကျသော လုပ်ငန်းတရပ် ဖြစ်၍ ရှေးခေတ်လူများအတွက် အလွန် အသုံးဝင်သော သစ်ပင် ဖြစ်လေသည်။ ဥရောပတိုက် တောင်ပိုင်းနှင့် အာရှမိုင်းနားကျွန်းဆွယ် အရပ်တို့သည် သံလွင်ပင် မူလပေါက်ရာ အရပ်များ ဖြစ်သည်။ စပိန်၊ ဣတလီ၊ ဂရိ အစရှိသော မြေထဲပင်လယ်တဝိုက်ရှိ တိုင်း နိုင်ငံတို့တွင် သံလွင်ဆီကို ဟင်းလျာများ ကြော်ချက်ရာ၌ အသုံးပြုကြသည်။ သံလွင်ဆီအညံ့စားကိုမူ မီးထွန်းရန်နှင့် ဆပ်ပြာလုပ်ရန်အတွက် အသုံးပြုကြသည်။

ယခုအချိန်တွင် မြေထဲပင်လယ်ဝန်းကျင်၌ တည်ရှိသော တိုင်းနိုင်ငံများအပြင် အာဖရိကတောင်ပိုင်းနှင့် နယူးဇီလန် ကျွန်းများ၌လည်း သံလွင်ပင်ကို စိုက်ပျိုးလျက်ရှိကြသည်။ ဂရိနိုင်ငံတွင် သံလွင်သီးမှည့် အခြောက်များကို လူတို့ စား သုံးကြသည်။ အခြားနိုင်ငံများ၌ သံလွင်သီးအမှည့်ကို ဖြစ် စေ၊ အစိမ်းကိုဖြစ်စေ သနပ်ပြုလုပ်၍ စားသုံးကြသည်။ သံလွင်သီးတွင် ဆီ ၆၀ မှ ၇၀ ရာခိုင်နှုန်းအထိ ပါရှိသဖြင့် ယခုခေတ်၌ သံလွင်ပင်များကို ဆီရရှိရန်အတွက် စိုက်ပျိုး ထားကြသည်။ သံလွင်စိုက်ပျိုးထားသော အချို့တိုင်းနိုင် ငံတို့တွင် သံလွင်သီးမှ ဆီကို ကြိတ်ဆုံများဖြင့်သာ ကြိတ် ညှစ်ယူလျက် ရှိကြသော်လည်း အချို့တိုင်းနိုင်ငံများ၌မူ ဆီကြိတ်စက်ရုံကြီးများကို ဆောက်လုပ်ထားကြသည်။ သံ လွင်ဆီသည် စားသုံးရန်အတွက်သာလျှင် အသုံးဝင်သည် မဟုတ်၊ ဆေးများဖော်စပ်ရာ၌၎င်း၊ ခေါင်းလိမ်းဆီ၊ ခေါင်း လျှော်ဆီနှင့် အခြား အိမ်တွင်းသုံး ပစ္စည်းအမျိုးမျိုး အတွက်သော်၎င်း ထိုဆီကို အသုံးပြုနိုင်သည်။ အပင်မှခူး ပြီးခါစ သံလွင်သီး အစိမ်းများတွင် ခါးသက်သော အရ သာရှိသည်။ ထိုအခါးဓာတ် ပျောက်ပြယ်သွားရန် အသီး များကို ဆားငန်ရည်တွင် စိမ်ထားရသည်။

သံလွင်ပင်၏ သစ်သားသည် အလွန်မာ၍ အရောင် အဆင်းလှသဖြင့် စားပွဲ ဗီရို စသည်တို့လုပ်ရန် အသုံးဝင် သည်။ ရှေးအခါက ဂရိနိုင်ငံတွင် သံလွင်ကို အမြတ်တနိုး ထားကြ၏။ အိုလင်းပစ် ကစားပွဲများ ကျင်းပသည့်အခါ ၌ ပွဲကြည့်ပရိသတ်တို့သည် သံလွင်ခက်များကို ကိုယ်စီကိုင် ၍ ပြိုင်ပွဲဝင်သူတို့ကို အားပေးကြသည်။ ပန်းဝင်သည့် အခါ၌လည်း သံလွင်ခက်များကို ဝင့်ကာမြှောက်ကာ ချီး ကျူးထောပနာပြုကြသည်။ ပြိုင်ပွဲနိုင်သူတို့အား သံလွင် ရွက်များဖြင့် ပြုလုပ်ထားသော သရဖူကို ဆုအဖြစ် ချီးမြှင့် လေ့ရှိကြသည်။ ထိုစဉ်အခါမှစ၍ သံလွင်ခက်သည် ငြိမ်း ချမ်းသာယာခြင်းနှင့် ပေါကြွယ်ဝခြင်း အတိတ်ကို ဆောင် သည်ဖြစ်ရာ အနောက်နိုင်ငံမှ စာပေများတွင် ထိုအဓိပ္ပါယ် မျိုးဖြင့် ယနေ့ထက်တိုင် ရေးသားထားကြသည်ကို တွေ့ရှိ ရလေသည်။ ဆပ်ပြာမပေါ်သေးမီက ဥစ္စာပစ္စည်းကြွယ်ဝ သူ ဂရိလူမျိုးနှင့် ရောမလူမျိုးတို့သည် ကိုယ်ခန္ဓာကို သံလွင် ဆီဖြင့် လိမ်းကျံလေ့ရှိကြသည်။ ခရစ်ယန်သမ္မာကျမ်းစာထဲ ၌ သံလွင်ပင်အကြောင်း ဖော်ပြချက်များ ပါရှိသည့်အပြင်၊ ခရစ်တော် ပေါ်ထွန်းရာဖြစ်သော ပယ်လက်စတိုင်ပြည်တွင် ယနေ့တိုင်တည်ရှိနေသော သံလွင်တောင်မှာ သမ္မာကျမ်းစာ နှင့် စပ်လျဉ်း၍ ထင်ရှားသော တောင်တခုဖြစ်လေသည်။

သံလွင်ပင်၏ အကိုင်းအခက်၊ အပွင့်အသီးတို့၏ အသွင် အပြင်နှင့် အရောင်အဆင်းတို့မှာ အတော်ပင် ကြည့်ရလှပ ပေသည်။ အခေါက်နှင့် အရွက်တို့မှာ အစိမ်းနုရောင်ဖြစ် ၍ ပင်လုံးတွင် အဖုအထစ်များရှိသဖြင့် ချော၍ မနေချော။ အရောင်ထွက်နေသော ခရမ်းရင့်ရောင် အသီးများမှာ အလွန် မက်မောစရာ ကောင်းလှပေသည်။ အရွယ်မှာ အချင်း ½ လက်မမှ တလက်မအထိရှိ၍ အချို့မှာ လုံး၍ အချို့မှာ ဘဲဥပုံရှိသည်။ အရွက်များမှာ လှံသွားပုံ ရှိ သည်။ သံလွင်ပင်၏ အပွင့်များသည် သေးငယ်၍ ပင်လုံး ကျွတ် ဝေဝေဆာဆာ ပွင့်ကြသည်။

**သံလွင်မြစ်။** ။သံလွင်မြစ်သည် မြန်မာနိုင်ငံ၏ အရှည် ဆုံးမြစ် ဖြစ်ရုံမက ကမ္ဘာပေါ်၌ ရှုခင်းအသာယာဆုံးနှင့် ရေစီးအကြမ်းဆုံး မြစ်တမြစ်ဖြစ်သည်။ အရှည်အားဖြင့် မိုင်ပေါင်း ၁,၇၅၀ ရှိသော်လည်း မြန်မာနိုင်ငံတွင်း၌မူ မိုင် ၆၅၀ သာရှိသည်။

သံလွင်မြစ်သည် တိဗက်ပြည်အရှေ့ဖက်ရှိ ' တန်ဂလာတောင်တန်းတွင် မြစ်ဖျားခံ၍ တရုပ်နိုင်ငံ ဆီကျန်ပြည်နယ်ဖက်သို့ အနောက်မှအရှေ့ စီးဆင်းလာပြီးလျှင် လတ္တီတွဒ်၃၀ နေရာရောက်သောအခါ အရှေ့တောင်ဖက်သို့ မြစ်ကြောင်းပြောင်းကာ ယူနန်နယ်ဖက်သို့ စီးဝင်သည်။ ယူနန်နယ်တွင် မြောက်မှတောင်သို့ စီးဆင်းလာပြီးနောက် လတ္တီတွဒ် ၂၇ နေရာရောက်သောအခါ အနောက်ဖက်ရှိ နမ့်မိုင်ခမြစ် (ဧရာဝတီမြစ်အစ မြစ်ခွတခု) နှင့်ရေဝေကုန်းတန်းတခုသာခြား၍ အရှေ့ဖက်ရှိ မဲခေါင်မြစ်နှင့် မိုင် ၃၀ ခန့်သာ ကွာလှမ်းတော့သည်။ လတ္တီတွဒ် ၂၄ တွင် မြန်မာနိုင်ငံတွင်းသို့ ဝင်ရောက်လာကာ ရှမ်းပြည်အတွင်း သိန္နီနယ်၊ ကိုးကန့်နယ်၊ ဝနယ်၊ မိုင်းလွန်းနယ်၊ ကျိုင်းတုံနယ်၊ မိုင်းပန်နယ်၊ မောက်မယ်နယ်တို့ကို လွန်ပြီးနောက် ကယားပြည်နယ်ကို ဖြတ်စီးသည်။ ကယားပြည်နယ်ကိုလွန်သော် ယိုးဒယားနှင့် ကော်သူးလေပြည်နယ်စပ်တလျှောက် နယ်ခြားသဖွယ် စီးဆင်းလာပြီးနောက် ကော်သူးလေပြည်နယ်တွင်းကို ဖြတ်စီးကာ လတ္တီတွဒ် ၁၆.၅ နေရာတွင် မော်လမြိုင်မြို့အနီးမှ မုတ္တမ ပင်လယ်ကွေ့ထဲသို့ စီးဝင်သည်။

မုတ္တမပင်လယ်ကွေ့ထဲသို့စီးဝင်ရာတွင် မြစ်ဝနှစ်ခု ခွဲထွက်သည်။တခုသည် ဘီလူးကျွန်းမြောက်ဖက်မှ ဒရယ်ပေါက်မြစ်အဖြစ် စီးသွား၍ ကျန်တခုသည် အရှေ့မှ မော်လမြိုင်မြစ်အဖြစ် စီးထွက်သည်။ ဒရယ်ပေါက်မြစ်သည် လှေသမ္ဗန်များသာ ဝင်ထွက်သွားလာနိုင်သော်လည်း မော်လမြိုင်မြစ်ဖက်မှမူ ပင်လယ်ကူး သင်္ဘောကြီးများသည် မော်လမြိုင်မြို့အထိ ဝင်ထွက်သွားလာနိုင်သည်။ ပေ ၁၀၀ ခန့်ရှည်သောသင်္ဘောများသည် မော်လမြိုင်မြို့မှ အထက် ၆၃ မိုင် ဝေးသောရွှေဂွန်းမြို့အထိ ဆန်တက်သွားလာနိုင်သည်။ သို့ရာတွင် နွေရာသီရေနည်းသည့်အခါ၌ ရွှေဂွန်းမြို့အောက် ၁၂ မိုင်ဝေးသော နေရာမှနေ၍ ပို၍ငယ်သောသင်္ဘောကလေးပေါ်ပြောင်း၍ ဆန်တက်ရသည်။ မော်တော်ဗုတ်နှင့် လှေသမ္ဗန်များသည် နွေရာသီတွင် ရွှေဂွန်းမြို့အထက် ၂၈ မိုင်ဝေးသော မဲဆိပ်မြို့အထိ ဆန်တက်နိုင်သည်။

သံလွင်မြစ်ကို တိဗက်ပြည်တွင် ဂျာမိုင်ချုမြစ်ဟုငင်း၊ နက်ချုမြစ်ဟုငင်း ခေါ်၍ တရုပ်နိုင်ငံတွင် လူကျန်မြစ်ဟုငင်း၊ နုကျန်မြစ်ဟုငင်း၊ဖုတ်ဆုကျန်မြစ်ဟုငင်း ခေါ်ပြီးလျှင် ရှမ်းတို့က နမ့်ခေါင်မြစ်ဟုခေါ်သည်။ တိဗက်ဘာသာဖြင့် ဂျာမိုင်ချုမြစ်ဟူသည်မှာ တရုပ်နိုင်ငံ၏မြစ်ပြာဟု အဓိပ္ပါယ်ရလေသည်။ သံလွင်မြစ်သည် တိဗက်ပြည်ဖက်ပိုင်းတွင် ရေခဲ၍မသွားမီ ရေရောင်သည် အပြာရင့်ရောင်သန်း၍ နေတတ်သောကြောင့် ဖြစ်သည်။ နွေအခါ၌မူ ရွှံ့နှစ်ရောင်ဝါ၍ နေလေသည်။ မြစ်အစပိုင်းဒေသတွင် အောင်းရိုင်းများ၊ ဝံပုလွေများ၊ ဇီတာဆိတ်များ ပေါများသဖြင့် ထင်ရှားသည်။ သံလွင်မြစ်ကို တရုပ်တို့က လူတို့အားအန္တရာယ်ဖြစ်စေသောမြစ်ဟု ယူဆကြသည်။ သို့ရာတွင် တရုပ်ပိုင်နက်ဖြစ်သော လူကျန်ခေါ် ဟောင်ခိုနယ်သည် အောက်မြန်မာနိုင်ငံ အပိုင်းမှလွဲ၍ သံလွင်မြစ်ဝှမ်း၏ လူဦးရေအများဆုံး အပိုင်းဖြစ်သည်။

သံလွင်မြစ်သည် ရေစီး အလွန်သန်သည်။ မြစ်ညာပိုင်းတွင် မြစ်ကြောင်းအလွန်ကျဉ်း၍ ရှူခင်းလှသည်။ မြစ်ကမ်းနှစ်ဖက်သည် ကျောက်တောင် ထူထပ်၍ ကမ်းပါးစောက်သည်။ ထိုကြောင့် အပေါ်မှစီး၍ ကြည့်မူ သံလွင်မြစ်သည် ကျောက်ဆောင်မှ အက်ကြောင်းသဖွယ် ထင်ရသည်။ မြစ်ကြောင်း တလျှောက်လုံး၏ ထူးခြားသောအသွင်အပြင်မှာ ဘေးနှစ်ဖက်ကမ်းသည် ရေမျက်နှာပြင်ထက်ပေ ၃,၀၀၀ မှ ၆,၀၀၀ အထိ မြင့်ရကား မြောင်းစောက်ကြီးနှင့် တူနေခြင်းပင်ဖြစ်သည်။ အောက်မြန်မာနိုင်ငံတွင်းသို့ ရောက်သည့်အပိုင်းမှလွဲ၍ ကမ်းနှစ်ဖက်မြေပြန့်ဟူ၍ လုံးဝ မတွေ့ရချေ။ နွေရာသီတွင် မြစ်ကမ်းများ၌, သဲများ၊ ရေစား ကျောက်တုံးကြီးများ၊ ကျောက်ဆောင်များနှင့် ကျောက်စရစ်ခဲများ အနှံ့အပြား တွေ့ရသည်။ မိုးရာသီ ကျရောက်သည့်အခါ ရေအလွန်ပြည့်လာရကား ဤကျောက်တုံး ကျောက်ဆောင်ကြီးများ မပေါ်တော့သည့်အပြင် ကမ်းစောက်ရှိ သစ်ပင်ကြီးများကိုပင် တိုက်စားသည်အထိ အရှိန်ပြင်းစွာ စီးဆင်းလေသည်။ သံလွင်မြစ်၏ ရေမျက်နှာပြင်သည် ရေများချိန်နှင့် ရေနည်းချိန်တွင် ပေ ၆၀ မှ ၇၀ အထိ ကွာခြားတတ်၍ အချို့ဒေသ၌ ပေ ၉၀ အထိ ကွာတတ်သည်။ ကျောက်တောင်များ၊ ကျောက်စောင်းများကြောင့် ရေဝဲများ၊ ရေတံခွန်များလည်း အလွန်ပေါများသဖြင့် နေရာတော်တော်များများ၌ ကူးသန်းသွားလာရေးအတွက် မလွယ်ကူချေ။ ရေအလွန်များသည့် မိုးတွင်းအခါ၌ ယင်းအန္တရာယ်များကင်းပျောက်သွားသော်လည်း ရေစီးအလွန်သန်လာသဖြင့် မြစ်ကိုဆန်၍ လှေများ မတက်နိုင်တော့ချေ။ ရေစီးနှေးသည့် အချို့နေရာတွင် တနာရီလျှင် မိုင်ဝက်နှုန်းစီး၍ ရေဝဲများနေရာတွင် ရေစီးသန်သည့်အခါ တနာရီလျှင် ၁၁½ မိုင်နှုန်း (၁၀ နော့)ကျော် စီးသည်။ရှားတောမြို့နှင့် ကျောက်ညှပ်မြို့ကြားရှိ သံလွင်မြစ်ပိုင်းတွင် လှေကြီးများ သွားလာနိုင်သော်လည်း ကျောက်ညှပ်မြို့နှင့် ယွန်းစလင်းမြစ်ဝ အကြားတွင် ရေဝဲများ ပေါရုံမက ရေစီးအလွန်သန်၍ အန္တရာယ်အများဆုံး အဆိုးဆုံးအပိုင်း ဖြစ်သည်။ ယွန်းစလင်းမြစ်ဝမှ သံလွင်မြစ်ဝအထိ အပိုင်း၌မူ သင်္ဘောများ အခက်အခဲမရှိသွားလာနိုင်ကြသည်။ သံလွင်မြစ်ကမ်းနှစ်ဖက်၌လည်း ခရီးသွားလာရန် လမ်းအနည်းငယ်ရှိသော်လည်း မိုးအခါ၌ ရေလွှမ်းသွားတတ်သဖြင့် ထိုလမ်းများပင်မရှိတော့ချေ။

သံလွင်မြစ်သည် ဧရာဝတီမြစ်ထက်ရှည်သော်လည်း ဧရာဝတီမြစ်လောက် ကူးသန်းသွားလာရေးအတွက် အသုံးမကျဟု ဆိုရပေမည်။ သို့ရာတွင် ယင်း၏ အရှေ့ဖက်ရှိ မဲခေါင်မြစ်ကဲ့သို့ကား သစ်များမျှောရန် အသုံးဝင်လေသည်။ သောင်ရင်းမြစ်နှင့် ဆုံရာနေရာ၏အောက် မိုင် ၃၀ ခန့်တွင် တည်ရှိသော ကယိုးတန်မြို့သည် ထင်ရှားသော သစ်ဆိပ်မြို့ဖြစ်သည်။ မြစ်ရိုးတလျှောက် သစ်တောများမှထွက်သည့် သစ်များကို မော်လမြိုင်မြို့အထက် မိုင် ၆၀ အကွာ နေရာလောက်အထိ မျှောချကာ ထိုနေရာမှ မော်လမြိုင်မြို့အထိ သစ်ဖောင်များဖွဲ့၍ ပို့ပြီးနောက် မော်လမြိုင်မြို့မှတဆင့် နိုင်ငံခြားသို့ သင်္ဘောကြီးများနှင့် တင်ပို့ကြရသည်။

သံလွင်မြစ်ကို ဖြတ်သန်းသွားလာရန် တရုပ်နိုင်ငံဖက်တွင် တန်တားဖြတ်၍ ဆောက်ထားသော်လည်း မြန်မာနိုင်ငံဖက်တွင် ကူးတို့ဆိပ်များမှတပါး ရှေးယခင်က တန်တားဟူ၍ မရှိခဲ့ချေ။ သို့ရာတွင် ၁၉၆၃ ခုနှစ်မှစ၍ တရုပ်ချေးငွေဖြင့် သံလွင်မြစ်ကိုဖြတ်ကာ တန်တားနှစ်ခုဆောက်လုပ်ရန် အစီအစဉ်ရှိခဲ့သည်။ တခုမှာ တာကော်တန်တားဖြစ်၍ ကျန်တခုမှာ ကွမ်းလုံတန်တားဖြစ်သည်။

မြန်မာနိုင်ငံဖက်တွင် စုစုပေါင်း ကူးတို့ဆိပ် ၈၈ ဆိပ်ရှိသည်။ ကူးတို့ဆိပ်ရွာများသည် အနည်းဆုံး အမြင့်ပေ ၁၀၀၀ ရှိ ကုန်းပေါ်တွင် တည်ထားလေသည်။ သံလွင်မြစ်ပေါ်တွင် ယင်းကူးတို့ဆိပ်များမှအပ အခြားမြို့ဟူ၍ မရှိသလောက်ပင် ဖြစ်သည်။ ကူးတို့ဆိပ် တခုနှင့် တခုသည် မိုင်ပေါင်းများစွာ ကွာလှမ်းသည်။ ကူးတို့ဆိပ် ၈၈ ခုအနက် ထင်ရှားသော ကူးတို့ဆိပ် ခြောက်ခု ရှိသည်။ ယင်းတို့မှာ (၁) ကွမ်းလုံ၊ (၂) မန်းဆန်၊ (၃) တာကော်၊ (၄) တာဆင်း၊ (၅) တာတောမော်၊ (၆) တာဆင်းလေ ကူးတို့ဆိပ်တို့ဖြစ်ကြသည်။

ကွမ်းလုံကူးတို့ဆိပ်— တရုပ်မြန်မာ ယဉ်ကျေးမှု လဲလှယ်ရေးတွင် ကျေးဇူးပြုခဲ့သော ကူးတို့ဆိပ်ဖြစ်သည်။ နမ့်တင်းမြစ်နှင့် သံလွင်မြစ်ဆုံရာအနီး သံလွင်မြစ်၏အနောက်ဖက်ကမ်းတွင် တည်ရှိသည်။ တရုပ်ပြည်သူ့သမတနိုင်ငံ ယူနန်နယ်စပ်မှ ၁၅ မိုင်ဝေးသည်။ (ကွမ်းလုံကူးတို့ဆိပ် — ရှု။) ယခုအခါ ထိုနေရာတွင် သံလွင်မြစ်ကို ဖြတ်ကျော်၍ ၁၉၆၅ ခုနှစ်က ဆောက်လုပ်ထားသော ၈၉၈ ပေရှည် ကြိုးတန်တားရှိသည်။

မန်းဆန်ကူးတို့ဆိပ်—မိုင်းလွန်းနယ်တွင် ရှိ၍ မြစ်ကိုဖြတ်ကူးရန် အလွယ်ဆုံးနေရာ ဖြစ်သည်။ ရေများသည့်အခါတွင် ကမ်းပါးသည် သဲများ၍အတက်အဆင်းကောင်းသည်။ သို့ရာတွင် အေး၍ ခြောက်သွေ့သောရာသီတွင် ကမ်းပါးနှစ်ဖက်စလုံးသည် ကျောက်ဆောင်ထူထပ်နေလေသည်။ ဤနေရာ၌ သာမန်ခြောက်သွေ့သောရာသီတွင် မြစ်သည် ကိုက် ၁၀၀ ခန့်သာ ကျယ်၍ အနည်းဆုံး ၅၅ ပေ နက်သည်။ အမြင့်ပေ ၁,၅၀၀ ရှိသည်။ ရေစီးသည် တနာရီလျှင်လေး မိုင် ငါးမိုင်ခန့် စီးသည်။ တောင်သိန္နီနယ်၊ မိုင်းလွန်းနယ်နှင့် သံလွင်မြစ် အရှေ့ဖက်ကမ်းရှိ အခြားဒေသမှ ကုန်သည်များ အများဆုံး အသုံးပြုသည်။

တာကော်ကူးတို့ဆိပ်—လူသိအများဆုံးနှင့် အထင်ရှားဆုံး ကူးတို့ဆိပ်ဖြစ်၍ တောင်ပိုင်း ရှမ်းပြည်တွင် အသုံးအများဆုံး ဖြစ်သည်။ ကျိုင်းတုံသို့ သွားသော လမ်းမကြီးသည် ယင်းကူးတို့ဆိပ်ကို ဖြတ်၍သွားလေသည်။ ခြောက်သွေ့သော ရာသီတွင် ထိုနေရာရှိ မြစ်သည် ကိုက် ၂၀၀ ကျယ်၍ ရေစီးမြန်သည်။ သို့ရာတွင် အမြင့်ပေ ၈၀၀ တွင် တည်ရှိသည်။ တာကော်တွင် သံလွင်မြစ်ကို ဖြတ်လျက် ၁၉၆၈ ခုနှစ်တွင် ယာယီကြိုးတန်တားတခု ဆောက်လုပ်ခဲ့သည်။ ထိုတန်တားသည် ၇၈၀ ပေရှည်သည်။

တာဆင်းကူးတို့ဆိပ်—မိုင်းပန်နယ်တွင်ရှိ၍ မိုင်းပန်နှင့်မိုင်းတုံနယ်၊ ဇင်းမယ်နယ်တို့သို့ ဆက်သွယ်သော လမ်းပေါ်တွင် တည်ရှိသည်။ ဤနေရာတွင် မြစ်အကျယ် ပေ ၂၀၀ ရှိသည်။ တဖက်တွင် နမ့်သီလီမြစ်ရှိ၍ တဖက်တွင် နမ့်သာလာမြစ် ရှိသည်။ ယင်းမြစ်ဝများနှင့် တမိုင်ခန့်သာ ဝေးသည်။ အမြင့်ပေ ၈၀၀ ရှိသည်။

တာတောမော်ကူးတို့ဆိပ်—ကယားပြည်နယ်တွင် ရှိသည်။ ကယားပြည်နယ် ရှားတောမြစ်၏ အရှေ့ဖက် မိုင် ၈၀ ဝေးသည်။ မဲဟောင်ဆောင်းမြို့သို့သွားသော လမ်းပေါ်တွင် တည်ရှိ၍ ခြောက်သွေ့သောရာသီတွင် မြစ်သည် ဤနေရာ၌ ကိုက် ၂၀၀ ကျယ်သည်။



သံလွင်မြစ်ပေါ်ရှိ ကွမ်းလုံကြိုးတန်တားနှင့် ကွမ်းလုံမြို့ကို တွေမြင်ရပုံ

တာဆင်းလေကူးတို့ဆိပ်—ကယားပြည်နယ်တွင် ရှိသည်။ အမြင့် ၇၅၀ ပေရှိပြီး ခြောက်သွေ့သော ရာသီတွင် မြစ်သည် ဤနေရာ၌ ကိုက် ၂၅၀ ကျယ်သည်။ မိုင်းမော (ရွာသစ်) မှ မော်လမြိုင်မြို့သို့ ကျောက်ညှပ်မြို့မှ တဆင့် သွားသော လှေလမ်း၊ ရှားတောမြို့သို့ မေပေမြို့မှ တဆင့် သွားသော လှေလမ်းတို့ စရာဌာနဖြစ်သည်။ ရွာသစ်မှ ခွန်သွန်သို့ သွားသောလမ်းသည် ဤကူးတို့ဆိပ်မှ သံလွင် မြစ်ကို ဖြတ်၍ ဖောက်ထားလေသည်။

သံလွင်မြစ်တွင် တိဗက်ပြည်နှင့် ယူနန်နယ်ပိုင်း၌ မြစ်လက်တက်ဟူ၍ ရှိသည်ဟု တိကျစွာ မသိရချေ။ မြန်မာနိုင်ငံဖက်၌မူ မြစ်လက်တက်ပေါင်း ၂၈ ခုရှိသည်။ ယင်းတို့မှာ

(၁) နမ့်ယုမြစ်—နယ်စပ်နားမှ စီးဝင်သည်။

(၂) နမ့်ခ္ခိုင်၊ သို့မဟုတ် နမ့်မွေ—မိုင်းယမြို့မှ စီးဝင်လာသည်။

(၃) ဆီပါဟော့မြစ်—ကိုးကန့်နယ်မှစီးဝင်လာသည်။

(၄) နမ့်နင်းမြစ်—အနောက်ဖက်မှ စီးဝင်၍ နမ့်တူမြစ်ဖျားနှင့် ယင်း၏မြစ်ဖျားကပ်လျက်ရှိသည်။

(၅) နမ့်တင်းမြစ်—ရှန်နင်းဖူးမြို့ဖက်မှ စီးဝင်လာ၍ ကွမ်းလုံကူးတို့ဆိပ်နားမှ စီးဝင်သည်။

(၆) နမ့်ကြက်မြစ်—ချောင်းငယ်သာသာ ဖြစ်သည်။

(၇) နမ့်မမြစ်—ဝနယ်ဖက်မှ နောင်ချိုတဝိုက်ကို ဖြတ်၍ စီးဝင်လာသည်။

(၈) နမ့်နန်းမြစ်—ငက်လက်မှ မြစ်ဖျားခံ စီးဝင်သည်။

(၉) နမ့်ကအိုမြစ်—အနောက် မိုင်းလွန်း ဒေသတွင် စီးဝင်သည်။

(၁၀) နမ့်ခမြစ်- တိဗက်ပြည် လွန်လာသည်မှ စ၍ ပဌမဆုံးသော အကြီးဆုံး မြစ်လက်တက် ဖြစ်လေသည်။

(၁၁) ဟွေးလွန်မြစ်—တာကော်ကူးတို့ဆိပ်၌စီးဝင်သည်။

(၁၂) မန်းပန်မြစ်- မြစ်လက်တက်ကြီးတခု ဖြစ်သည်။

(၁၃) နမ့်ဆင်မြစ်—ကျိုင်းတုံမြို့အနီး မြစ်ဖျားခံသည်။

(၁၄) မဲဟင်းမြစ်—မိုင်းဟန်မြို့ဖက်မှ စီးဝင်သည်။

(၁၅) နမ့်ပန်မြစ်—မိုင်းပန်နယ်ကို ဖြတ်စီးသည်။

(၁၆) မဲချော့မြစ်

(၁၇) မဲဆကွန်မြစ် (နမ့်ဆကွန်မြစ်)

(၁၈) မဲဆယ်မြစ်
(၁၉) နမ့်တန်မြစ်—မိုင်းကိုင်နယ် တောင်တန်းများတွင် မြစ်ဖျားခံပြီးနောက် လဲချား၊ မိုးနဲ၊ မောက်မယ်နယ်များကို ဖြတ်၍စီးသည်။
(၂၀) ဟုဲလောင်မြစ် } ရှမ်းပြည်နယ်နှင့် ကယားပြည်
(၂၁) ဟုဲလန်းမြစ် } နယ်စပ်နေရာမှ စီးဝင်သည်။
(၂၂) နမ်းမယ်ဖြဲ (မယ်ဖြဲ) မြစ်—မဲဟောင်ဆောင်းနယ်ကို ဖြတ်၍ စီးဆင်းသည်။
(၂၃) နမ့်ပွန်မြစ်၊ သို့မဟုတ် ပွန်ချောင်း—ရှမ်းပြည်နယ်နှင့် ကယားပြည်နယ်ကို ဖြတ်၍ စီးသည်။ ယင်း၏ မြစ်လက်တက်တခုဖြစ်သော နမ့်ဘီလူး (ဘီလူးချောင်း) သည် အင်းလေးကန်၌ မြစ်ဖျားခံသည်။
(၂၄) သောင်ရင်းမြစ်—ယိုးဒယားနိုင်ငံတွင် မြစ်ဖျားခံ၍ ယိုးဒယားနှင့် မြန်မာ နယ်နိမိတ်အဖြစ် စီးဆင်းကာ အရှေ့တောင်ဖက်မှ စီးဝင်သည်။
(၂၅) ယွန်းစလင်းမြစ်—အနောက်ဖက်မှ စီးဝင်သည်။
(၂၆) ဒုန်သမိမြစ်—အနောက်ဖက်မှ စီးဝင်သည်။
(၂၇) ဂျိုင်းမြစ်—အရှေ့ဖက်မှ စီးဝင်သည်။
(၂၈) အတ္တရံမြစ်—အရှေ့ဖက်မှ စီးဝင်သည်။

အထက်ပါ မြစ်လက်တက်ကြီး ၂၈ ခုအနက် နမ့်ခါ၊ နမ့်ပန်၊ နမ့်ဆင်၊ နမ့်တန်၊ နမ့်ပွန်၊ သောင်ရင်းနှင့် ယွန်းစလင်းစသော မြစ်များသည် အထင်ရှားဆုံး ဖြစ်ကြသည်။ ရှမ်းပြည်နယ်အတွင်း စီးဆင်းသော မြစ်များသည် သံလွင်မြစ်ထဲသို့ စီးဝင်သည့်အခါ ရေတံခွန်များ၊ ရေတံခွန်လျှောများဖြင့် စီးဝင်လေ့ ရှိကြသည်။ သံလွင်မြစ်သည် အောက်ပိုင်း အနည်းငယ်မှ အပ ရေမော်၊ ရေတံခွန်များ အလွန်ပေါသဖြင့် ကူးသန်းသွားလာရန် ခက်ခဲသောမြစ် ဖြစ်လေသည်။

**သံသရာ။** ။"သံသရ"ဟူသောဝေါဟာရသည် သံသာရ ဟူသော ပါဠိမှ ဆင်းသက်လာသော ပါဠိသက် ဝေါဟာရတရပ် ဖြစ်ပေသည်။ ယင်းကို ပုဒ်ခွဲသော် သံတပုဒ်၊ သာရတပုဒ်ဖြစ်ရာ၊ သံ=အဆက်မပြတ်တလစပ်၊ သာရ= ဖြစ်ခြင်းဟု အနက် အဓိပ္ပါယ် ရရှိသောကြောင့်၊ "ခန္ဓာနဉ္စ ပဋိပါဋိ၊ဓာတုအာယတနာနစ"စသည်ဖြင့်"ခန္ဓာအာယတန ဓာတ်တို့၏ အစဉ်မပြတ် ဆက်ကာဆက်ကာ ဖြစ်နေမှုကို သံသရာဟု ခေါ်ဆိုအပ်၏" ဟု အဋ္ဌကထာတို့၌ ပြဆိုတော်မူခဲ့ကြသည်။ ခန္ဓာ အာယတန ဓာတ် ဟူသည် ကား အခြားမဟုတ်၊ အချုပ်အားဖြင့် နာမ်ရုပ်နှစ်ပါးပင် ဖြစ်သည်။ ထိုနာမ်ရုပ်နှစ်ပါးတို့ အဆက်မပြတ် ဆက်ကာဆက်ကာဖြင့် ဘဝတခုမှ ဘဝတခုသို့ ကူးပြောင်းရွေ့သွားသကဲ့သို့ ဖြစ်နေသည်ကိုပင် သံသရာ၌ ကျင်စားသည်သည်ဟူ၍ ပြောစမှတ်ပြုလျက် ရှိကြလေသည်။

ထင်ရှားအောင်ပြပါဦးအံ့။ ယခု ကျွန်ုပ်တို့ မျက်မြင်တွေ့ရှိနေရသော သရက်ပင်များသည် သရက်ပင်ဟောင်းများ ထားပစ်ခဲ့သော အစေ့များမှ ပေါက်ပွားလာကြကုန်၏။ ထို လက်ရှိ အပင်များသည်လည်း နောင်အခါတွင် အဆက်မပြတ် သရက်ပင်များ ပေါက်ပွား လာနိုင်စေရန် အသီးသီး၍ မျိုးစေ့များကို ချထားပေးကြကုန်၏။ယင်းသို့ မျိုးစေ့များကို အဆက်မပြတ် တပင်မှတပင် ပေးသွားနိုင်သရွေ့ ကာလပတ်လုံး သရက်မျိုး မတုံးနိုင်၊ ပျောက်ကွယ်မသွားနိုင် ဖြစ်သကဲ့သို့၊ ထိုအတူ သတ္တဝါတို့၏ ရုပ်နာမ်တည်းဟူသော ခန္ဓာပင်ကြီးတပင် ပေါက်လာလျှင် ကောင်းမှုကို ပြုကျင့်ခြင်းတည်းဟူသော ကုသိုလ်မျိုးစေ့ (ကုသိုလ်ကံ) နှင့် မကောင်းမှုကို ပြုကျင့်ခြင်းတည်းဟူသော အကုသိုလ်မျိုးစေ့ (အကုသိုလ်ကံ)အထိုက်အလျောက် ဖြစ်ပေါ်လာကြမည်မှာ ဓမ္မတာပင် ဖြစ်ပေသည်။

မည်သည့်သတ္တဝါမဆို ကိုယ်ဖြင့်ဖြစ်စေ၊ နှုတ်ဖြင့်ဖြစ်စေ၊ စိတ်ဖြင့်ဖြစ်စေ တစုံတခုသော အပြုအမူ အကျင့်အကြံကို ပြုမူကျင့်ကြံမည်ချည်းဖြစ်ရာ၊ ယင်းပြုမူကျင့်ကြံချက်ကောင်းလျှင်၊ အပြစ်ကင်းလျှင် ကုသိုလ်မျိုးစေ့၊ မကောင်းလျှင်၊ အပြစ်မကင်းလျှင် အကုသိုလ်မျိုးစေ့ တည်တော့မည်သာ ဖြစ်သည်။

အောင်မြင်သော သရက်မျိုးစေ့ရှိနေလျှင် သရက်ပင် ပေါက်နိုင်မည်မလွဲဖြစ်သကဲ့သို့ ကမ္မပထမြောက်သော ကုသိုလ်ကံ၊ အကုသိုလ်ကံမျိုးစေ့ တည်နေလာလျှင် ခန္ဓာပင် ဆက်လက် ပေါက်ပွားလာမည်မှာ လွှဲရှောင်မရသော သဘာဝ နိယာမဖြစ်ရာ၊ ကုသိုလ်ကံမျိုးစေ့ တည်နေက ကောင်းမြတ်သော ရုပ်နာမ်ခန္ဓာ၊ အကုသိုလ်ကံ မျိုးစေ့ တည်နေက မကောင်းသောရုပ်နာမ်ခန္ဓာ ဆက်လက်ဖြစ်တော့မည် ကေန်ဖြစ်လေသည်။

ပြဆိုခဲ့ပြီးသည့်အတိုင်း သတ္တဝါဟူသရွေ့မှာ ကုသိုလ် အကုသိုလ်တည်းဟူသော ကံမျိုးစေ့ ရှိကြသည်ချည်းဖြစ်ရာ၊ ထိုမျိုးစေ့ရှိနေသမျှ ကာလပတ်လုံး ထိုမျိုးစေ့၏ အစွမ်းတန်ခိုးဖြင့် ရုပ်နာမ်တည်းဟူသော ခန္ဓာပင်ကြီး အဆက်မပြတ်ပဲ တခဏပြီး တခဏ၊ တဘဝပြီး တဘဝ ဆက်ကာဆက်ကာ ဖြစ်ပွား ရပ်တည်နေမှုကို သံသရာ ဆိုသည် မှတ်ရမည်။

ထိုသံသရာဟု ဆိုအပ်သော ရုပ်နာမ်တရားတို့ အစ မထင်ကာလမှစ၍ မပြတ်မစဲ ထပ်တလဲလဲ ဆက်ကာ ဆက်ကာ ဖြစ်ခြင်းဖြင့် ဘုံသုံးပါး၌ ပြေးသွားကျင်လည်နေရသော သတ္တဝါတဦးတယောက်၏ ရုပ်နာမ်ခန္ဓာ အစဉ်သည် အနုပါဒိသေသနိဗ္ဗာန်ပြည်ခွင်သို့ ဝင်ရောက်သည့်

အခါကူမှပင် နောက်တဖန် အသစ်မဖြစ်မလာ ကောင်းစွာချုပ်ငြိမ်းလေတော့သည်။

ထိုကြောင့် ရုပ်နာမ် ခန္ဓာ တေဘူမက တရားတို့၏ ပျက်ပြားချုပ်ပျောက်လွန်မြောက်ရာမှန် နိဗ္ဗာန်တရားမြတ်သည် သာလျှင် ပျက်ပြား ချုပ်ကွယ်ခြင်း မရှိပဲ၊ အမြဲတစေ တည်နေသောတရား၊ အားထားကိုးကွယ်ရာ ကေန် အမှန် မသွေ ဖြစ်ပါပေသည်ဟု ယုံကြည်စွာ မှတ်သားရမည် ဖြစ်ပေသတည်း။　　ဆရာဥာဏ်

**သံအမတ်နှင့်ကောင်စစ်ဝန်။** ။ကမ္ဘာပေါ်ရှိ အချုပ်အခြာ အာဏာပိုင်နိုင်ငံတိုင်းလိုလိုပင် အခြားအာဏာပိုင်နိုင်ငံတို့သို့ မိမိတို့နိုင်ငံဆိုင်ရာ သံတမန်များ အသီးအသီး အလဲအလှယ် စေလွှတ်လေ့ ရှိကြသည်။ ၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့မှ အစပြု၍ အချုပ်အခြာ အာဏာပိုင်နိုင်ငံအဖြစ်သို့ ရောက်ရှိလာခဲ့သော မြန်မာနိုင်ငံသည်လည်း အိမ်နီးချင်းနိုင်ငံများဖြစ်သော အိန္ဒိယ၊ တရုပ်၊ ပါကစ္စတန်၊ သီဟိုဠ်နှင့် ယိုးဒယား စသော နိုင်ငံများသို့၎င်း၊ ဂရိတ်ဗြိတိန်၊ အမေရိကန်ပြည်ထောင်စု၊ ကနေဒါ၊ ဆိုဗီယက်ရုရှနှင့် ပြင်သစ်စသော နိုင်ငံများသို့၎င်း သံတမန်များ စေလွှတ်ထားရှိလေသည်။ မြန်မာနိုင်ငံမှ ထိုသံတမန်များ စေလွှတ်ထားသော နိုင်ငံများနှင့် အခြား နိုင်ငံများကလည်း ယင်းတို့၏ သံတမန်များကို မြန်မာနိုင်ငံသို့ စေလွှတ်ထားရှိ၏။

သံအမတ်ကြီးများသည် သံတမန် ဝန်ထမ်းများတွင် အမြင့်ဆုံး အတန်းဝင် ကိုယ်စားလှယ်တော်များ ဖြစ်ကြ၏။ ယခင်က ဘုရင်များအုပ်စိုးရာ နိုင်ငံများသို့သာ သံအမတ်များ စေလွှတ်လေ့ရှိသည်။ ထိုနောက်တွင်ကား သမတနိုင်ငံများသို့လည်း စေလွှတ်လေသည်။ သံအမတ်မှာ အချုပ်အခြာ အာဏာပိုင်နိုင်ငံ၏ အကြီးအကဲက မိမိ၏ ကိုယ်စားလှယ်တော်အဖြစ် နိုင်ငံခြားအစိုးရနှင့် စေ့စပ်ပြောဆိုရန် ခန့်အပ်ခြင်းခံရသော နိုင်ငံ၏စီးပွားကို စောင့်ရှောက်ဆောင်ရွက်သူဖြစ်၏။ အထူးသံအမတ်မှာ အမြဲနေမဟုတ်ပဲ အထူးအကြောင်းကိစ္စကို ဆောင်ရွက်ရန် စေလွှတ်ထားခြင်းခံရသော ကိုယ်စားလှယ်တော် ဖြစ်ပေသည်။

သံအမတ်သည် မိမိ ကိုယ်တိုင် ဆောင်ကြဉ်းသွားရ ပြီးလျှင် သက်ဆိုင်ရာ နိုင်ငံအကြီးအကဲသို့ ကိုယ်တိုင်ပေးဆက်ရမည်ဖြစ်သော ခန့်အပ်လွှာနှင့် မိမိအား ထုတ်ပေးသော ညွှန်ကြားချက်များတွင် ပါဝင်သည့် အခွင့်အာဏာ



ပြင်သစ်နိုင်ငံရောက် ကုန်းဘောင်ခေတ် မြန်မာသံအဖွဲ့အား ကြိုဆိုနေပုံ



ပြည်ထောင်စုမြန်မာနိုင်ငံ တော်လှန်ရေးကောင်စီဥက္ကဋ္ဌ ဦးနေဝင်းအား ပြည်ထောင်စု မြန်မာနိုင်ငံဆိုင်ရာ ပြည်ထောင်စုသမတဂျာမနီနိုင်ငံ သံအမတ်ကြီးက ယင်း၏သံအမတ် ခန့်အပ်လွှာကို မပေးအပ်မီ နှုတ်ဆက်နေစဉ်

များ အရသာ ပြောပိုင်ခွင့်၊ ဆောင်ရွက်ခွင့် ရှိလေသည်။ အာဏာကုန်လွှဲအပ်ထားခြင်းခံရသူ မဟုတ်လျှင် ခန့်အပ်လွှာနှင့် ညွှန်ကြားချက်များတွင် အကျုံးမဝင်သည့် အကြောင်းကိစ္စများကို သက်ဆိုင်ရာအစိုးရထံမှ ညွှန်ကြားချက်များ ထပ်မံရယူ ဆောင်ရွက်ရသည်။ ခန့်အပ်လွှာဆိုသည်မှာ သံအမတ်အား ခန့်ထားသော နိုင်ငံအကြီးအကဲက သံအမတ်သွားရမည့် နိုင်ငံအကြီးအကဲသို့ သံအမတ်သည် မိမိ၏ကိုယ်စား ဆောင်ရွက်သမျှကို အတည်ပြုလက်ခံမည် ဖြစ်ကြောင်းနှင့် ပါးလိုက်သော တံဆိပ်ခပ်နှိပ်ချိတ်ပိတ်ထားသည့် သဝဏ်လွှာပင်ဖြစ်၏။ သို့ဖြစ်ရာ မိမိအား စေလွှတ်သည့် နိုင်ငံအကြီးအကဲ၏ ကိုယ်စားလှယ်ဖြစ်သည်နှင့်အညီ မိမိသွားရောက်ရသော နိုင်ငံ၏ အကြီးအကဲနှင့် ကိုယ်တိုင်တွေ့ဆုံခွင့်ရသည်။ ထို့ပြင် မင်းပွဲသဘင်များတွင် ဦးစားပေးနေရာပေးခြင်းကိုလည်း ခံရလေသည်။

နိုင်ငံတကာက အသိအမှတ်ပြုထားသော သံတမန်ကိုယ်စားလှယ်များတွင် သံအမတ်ကြီးအောက် အဆင့်အတန်းနိမ့်သော ကိုယ်စားလှယ်တော်မှာ အထူးအာဏာရ သံကိုယ်စားလှယ်ပင်ဖြစ်သည်။ အဆိုပါ အထူးအာဏာရ သံကိုယ်စားလှယ်သည်လည်း သံအမတ်ကြီးကဲ့သို့ပင် အခြားတနိုင်ငံ၏အကြီးအကဲထံသို့ ခန့်အပ်လွှာဖြင့် ခန့်ထား စေလွှတ်ခြင်း ခံရသူဖြစ်၏။ တတိယအဆင့်အတန်းဝင် ကိုယ်စားလှယ်တော်များမှာ ပြည်တော်နေ သံငယ် ဖြစ်၏။ ရှားဗေးဒဖားခေါ် တာဝန်ခံ သံမှူးများကား နောက်ဆုံး အဆင့်အတန်းတွင် ပါဝင်သည့် ကိုယ်စားလှယ်တော်များဖြစ်သည်။ ပြည်တော်နေ သံငယ်များ သည် တခြားတနိုင်ငံ၏ အကြီးအကဲထံသို့ ခန့်အပ်စေလွှတ်ထားခြင်းခံရသူများ ဖြစ်သော်လည်း၊ တာဝန်ခံသံမှူးများကား နိုင်ငံခြားရေးရာ ဝန်ကြီးများက တခြားနိုင်ငံမှ နိုင်ငံခြားရေးရာ ဝန်ကြီးများထံသို့ ခန့်အပ်စေလွှတ်ထားသူများဖြစ်၏။ တာဝန်ခံသံမှူးများကို ကြားဖြတ်ကာလအတွက်သော်၎င်း၊ အထူးအရေးကိစ္စအတွက်သော်၎င်း ခန့်ထားလေ့ရှိသည်။

သံအမတ်သည် မိမိနိုင်ငံ၏ အကျိုးစီးပွားကို စောင့်ရှောက်ယင်း နှစ်နိုင်ငံ အနှုးအညွတ် ဆက်ဆံရေးကို ဖြစ်မြောက်အောင် ဆောင်ရွက်ရသူဖြစ်ရာ ယင်း၏တာဝန်ဝတ္တရားများကား ကြီးလေးလှပေသည်။ လိမ္မာရေးခြား ပရိယာယ်ကျွမ်းကျင် အမြော်အမြင်ကြီးသူလည်း ဖြစ်ရသည်။ မိမိအား စေလွှတ်ထားရာ နိုင်ငံ၏ အကြောင်းကို မိမိ၏ အစိုးရသို့ အမြဲမပြတ် အစီရင်ခံရသည်။ နှစ်နိုင်ငံစလုံးနှင့် သက်ဆိုင်သော အကြောင်းကိစ္စများတွင် မိမိအစိုးရ၏ သဘောထားနှင့် ထင်မြင်ချက်များကို မိမိအား စေလွှတ်ထားရာနိုင်ငံ အစိုးရသို့ တင်ပြ အကြောင်းကြားရလေသည်။

သံအမတ်များသည် အထူးအခွင့်အရေးများကို ရရှိကြသည်။ သံအမတ်များနှင့် သံရုံးအဖွဲ့သားများကို မည်သူမျှ အနှောင့်အရှက် မပေးရချေ။ ထိုအခွင့်အရေးကို သက်ဆိုင်ရာ နိုင်ငံများသည် အချင်းများကာ စစ်ဖြစ်ပွားသည့်တိုင်အောင် ခံစားနိုင်သည်။ သံအမတ် နေထိုင်ရာ အဆောက်အအုံနှင့် အသုံးအဆောင်များမှာ သံအမတ်အား ခန့်ထားသည့် နိုင်ငံ၏မြေပေါ်တွင် တည်ရှိသည်ဟု မှတ်ယူရသဖြင့် သံအမတ်မှာ မိမိအား စေလွှတ်ထားရာ

နိုင်ငံ၏ ~သစ္စာတော်ခံ မဟုတ်သောကြောင့် အခွန်အတုတ်များ မပေးဆောင်ရချေ။ သံအမတ်နှင့် သံရုံးအဖွဲ့သားများသည် တရားမနှင့် ရာဇဝတ်ဆိုင်ရာ ဥပဒေများကို ဖောက်ဖျက်ကျူးလွန်သဖြင့် ခံစားရသော အပြစ်ဒဏ်များမှ လွတ်ကင်းခွင့်ရသည်။ သို့သော် ကိုယ်ထိလက်ရောက်ကျူးလွန်လျှင် သော်၎င်း၊ နိုင်ငံတော်ကို လုပ်ကြံလျှင်သော်၎င်း အရေးယူကာ ပြည်နှင်ဒဏ် ပေးနိုင်၏။ ယခင်က နိုင်ငံရေးနှင့် ရာဇဝတ်ပြစ်မှုတို့ကို ကျူးလွန်သူများသည် နိုင်ငံခြားသံရုံးအတွင်းသို့ ခိုဝင်တိမ်းရှောင်နေလျှင် ဝင်ရောက်ဖမ်းဆီးခြင်း မပြုနိုင်တော့ချေ။ ယခုအခါတွင်ကား ထိုသို့ဝင်ရောက်ပုန်းအောင်းနေသည့်အခါ သက်ဆိုင်ရာအာဏာပိုင်များထံသို့ ပေးအပ်ရန်တောင်းဆိုသဖြင့် မပေးအပ်လျှင် သံရုံးအတွင်းသို့ဝင်ရောက်ဖမ်းဆီးနိုင်သည်။

နိုင်ငံရေးရာကိစ္စများကို ဆောင်ရွက်ရန် နိုင်ငံခြား၌ နိုင်ငံရေး ကိုယ်စားလှယ်များ ထားရှိသကဲ့သို့ ကူးသန်းရောင်းဝယ်ရေး ကိစ္စများကို ဆောင်ရွက်ရန်အတွက် ကူးသန်းရောင်းဝယ်ရေး ကိုယ်စားလှယ်များကိုလည်း နိုင်ငံခြား၌ ထားရှိရလေသည်။ အထူးသဖြင့် ကမ္ဘာပေါ်ရှိကူးသန်းရောင်းဝယ်ရေး အချက်အခြာ ဗဟိုဌာနများ၌ ကူးသန်း ရောင်းဝယ်ရေး ကိုယ်စားလှယ်များကို အမြဲတမ်းထားရှိကြရလေသည်။ ထိုသူများကား ကောင်စစ်ဝန်များဖြစ်သည်။ ယင်းတို့သည် မိမိတို့နိုင်ငံ၏ ကူးသန်းရောင်းဝယ်ရေးကို ကူညီစောင့်ရှောက်ပေးရန်သာမဟုတ်ပဲ မိမိတို့နိုင်ငံသားများ၏ အကျိုးစီးပွားတို့ကိုလည်း ကာကွယ်စောင့်ရှောက်ပေးရန်ဖြစ်၏။ ယင်းတို့သည် မိမိတို့နိုင်ငံမှ အလည်အပတ် လာရောက်သူများနှင့် ကုန်သွယ်ရန် လာရောက်သူများကို ကူညီစောင့်ရှောက် ပေးရလေသည်။ မိမိတို့နိုင်ငံသို့ ကုန်တင်ပို့ရေးတွင် ကြီးကြပ်ပေးရသည့်ပြင် ကူးသန်းရောင်းဝယ်ရေးဆိုင်ရာ အခွင့်အလမ်းသစ်များကိုလည်း စုံစမ်းရှာဖွေကာ မိမိတို့၏အစိုးရသို့ အကြောင်းကြားအစီရင်ခံရသည်။ နိုင်ငံခြားနှင့် ကုန်ကူးသန်း ဆက်သွယ်လိုသူများသည် မိမိတို့၏ ကူးသန်းရောင်းဝယ်ရေး ကိုယ်စားလှယ်များမှတဆင့် ဆက်သွယ်နိုင်ပေသည်။ ကူးသန်းရောင်းဝယ်ရေး ကိုယ်စားလှယ်များသည် ပွဲစားသဖွယ်ကုန်ဝယ်လိုသူများကို ရှာဖွေအကြောင်းကြားပေးရ၏။ ထိုကြောင့်ကောင်စစ်ဝန်တို့သည် မိမိတို့နိုင်ငံ၏ကူးသန်းရောင်းဝယ်ရေးအခြေကို မြှင့်တင်ပေးနေသူများ ဖြစ်ကြသည်။

**သိမ်။** ။သိမ်ဆိုသည်မှာ သီမာ ဟူသော ပါဠိမှ ဖြစ်လာသော စကားဖြစ်သည်။ အပိုင်းအခြား နယ်ပယ်ဟု ဆိုလိုသည်။ယင်းသိမ်သည် (၁) ဗဒ္ဓသိမ်၊ (၂) အဗဒ္ဓသိမ် ဟူ၍ နှစ်မျိုးရှိသည်။ ထိုနှစ်မျိုးတွင်

(၁) ဗဒ္ဓသိမ်ဆိုသည်မှာ အလိုရှိသလောက် မြေကွက်ကို သတ်မှတ်ပိုင်းခြား၍ သံဃာအားလုံး အညီအညွတ်ကံပြုရာ သိမ်အဖြစ်ဖြင့် သံဃာတော်က သမုတ်ထားသော နယ်ပယ်ဖြစ်သည်။ ထို နယ်ပယ်မှာ အကျဉ်းဆုံးအားဖြင့် ရဟန်း ၂၁ ပါး စည်းဝေးထိုင်နေလောက်အောင် အကျယ်အဝန်း ရှိစေရသည်။ အကျယ်ဆုံးအားဖြင့် သုံးယူဇနာထက် မပိုစေရ။ ယူဇနာ ဆိုသည်မှာ အကြီးဆုံးအားဖြင့် ၁၂ မိုင်နှင့် ခြောက်ဖာလုံခန့်၊ အလတ်စားအားဖြင့် ကိုးမိုင်နှင့် ပေ ၄ဂဝ၊ အသေးဆုံးအားဖြင့် တမိုင်နှင့် ပေ ၇၂ဝ ပမာဏရှိသည်ဟု ကျမ်းဂန်တို့၌ ပြဆိုထား၏။ ဤအရာ၌ ကြီးလွန်းသည်ကို ပယ်၍ အသေးဆုံး ယူဇနာကို ယူလျှင် အပြစ်ကင်းရာ၏။သမုတ်ဆိုသည်မှာ ထိုသံဃာအစည်းအဝေး၌ ပါဝင်သောရဟန်းတော်တို့က အားလုံးသဘောတူ အသိအမှတ် ပြုခြင်းပင် ဖြစ်သည်။ ဤသို့ သမုတ်ထားသော ဗဒ္ဓသိမ်ကို ရည်၍ သိမ်ထဲသို့သွားပြီး ရဟန်းပြုပေးသည်ဟု ဆိုသည်။

(၂) အဗဒ္ဓသိမ် ဆိုသည်မှာ သံဃာက မသမုတ်ရတော့ပဲ၊ သူ့အလိုလိုပင် သီးခြား ဖြစ်နေသော နယ်ပယ်ပင်ဖြစ်သည်။ ယင်းမှာ

(က) ဂါမသိမ်

(ခ) သတ္တဗ္ဘန္တရသိမ်

(ဂ) ဥဒကုက္ခေပသိမ် ဟူ၍ သုံးမျိုးရှိသည်။ ထိုတွင်

(က) ဂါမသိမ် ဆိုသည်မှာ အာဏာပိုင် အစိုးရတို့က အခွန်တော် ကောက်ခံရန်အတွက် သူကြီးတပိုင် အဖြစ်ဖြင့် ပိုင်းခြားသတ်မှတ်ထားသော ရွာနယ်ပင် ဖြစ်သည်။ ထိုရွာနယ်ထဲမှ တစိတ်တဒေသ မြေကွက်ကို ခွဲထုတ်၍ အာဏာပိုင် အစိုးရတို့က အခြားသူ တဦးအား သီးခြားရွာနယ်အဖြစ်ဖြင့် ပိုင်းခြားသတ်မှတ်၍ ပေးလျှင်၊ ယင်း မြေကွက်သည်လည်း ဝိသုံဂါမ သီးခြားရွာနယ်တခု ဖြစ်၏။

(ခ) သတ္တဗ္ဘန္တရသိမ် ဆိုသည်မှာ မည်သည့် ရွာနယ်ထဲမှာမျှ မပါဝင်သော တောအရပ်ဒေသ၌ ကံပြုသည့် သံဃာ၏ ပတ်ဝန်းကျင် အပြင်စွန်းမှ ခုနစ် အဗ္ဘန္တရတိုင်အောင် ပြန့်ကျယ်သော နယ်ပယ်ပင် ဖြစ်သည်။ အဗ္ဘန္တရ တခုမှာ ၂၈ တောင် ပမာဏ ရှိသည်။

(ဂ) ဥဒကုက္ခေပသိမ် ဆိုသည်မှာ မတူးမဆွ မပြုလုပ်ရပဲ သူ့အလိုလို ဖြစ်နေသော မြစ်၊ ချောင်း၊ အင်းအိုင်၊ သမုဒ္ဒရာတို့၌ ကံပြုသော သံဃာ၏ အပြင်စွန်းမှ လက်ဖြင့် ရေကိုကော်၍ ပက်လိုက်လျှင် ကျလောက်ရာ အရပ်တိုင်အောင် ပြန့်ကျယ်သော ပတ်ဝန်းကျင်နယ်ပယ်ပင်ဖြစ်သည်။ ယင်းကို ရေသိမ်ဟူ၍လည်း ခေါ်ကြ၏။ ယင်း ရေသိမ်၌ ကံပြုလျှင် ရေထဲသို့ဆင်း၍လည်း ပြုနိုင်၏။ ကမ်းနှင့် မဆက်စပ်သော လှေ၊ ဖောင်များနှင့် ရေထဲ၌ ဆောက်ထားသော

အဆောက်အအုံများပေါ်၌ တည်နေ၍လည်း ပြုနိုင်၏။ ဆောင်းဥတု၊ နွေဥတုတို့၌ ရေမရှိသော်လည်း မိုးလေးလအတွင်းက မပြတ် ရေရှိခဲ့သော သောင်ပြင် မြေပြင်ပေါ်၌လည်း ပြုနိုင်၏။

## ဗဒ္ဓသိမ် သမုတ်ရခြင်း၏ အကြောင်း

သံဃကံ တခုခုကိုပြုလျှင် ထိုပြုရာသိမ်(နယ်ပယ်)အတွင်း၌ ရှိသမျှ ရဟန်းများကို တပေါင်းတည်း စုဝေးစေရသည်။ ပုံပမာ၊ ငါးမိုင်လောက်ကျယ်သော ရွာနယ် (ဂါမသိမ်) အတွင်း၌ ဥပုသ်ပဝါရဏာ ပြုခြင်း၊ ရဟန်းခံခြင်း စသောကံတခုခုကို ပြုလိုလျှင်၊ ငါးမိုင်ပတ်လည် ထိုရွာနယ်အတွင်း၌ ရှိသမျှသော ရဟန်းအားလုံးကို တပေါင်းတည်း စုဝေးစေရသည်။ မလာရောက်နိုင်သော ရဟန်းများရှိနေလျှင် ထိုရဟန်းတို့၏ သဘောတူကြောင်း ဆန္ဒကို ဆောင်ယူခဲ့ရသည်။ ကံပြုနေဆဲ၌ ထိုရွာနယ်အတွင်းသို့ တခြားမှ ရဟန်းများ ဝင်ရောက်လာခြင်းလည်း မရှိစေရ။ ဤသို့ တသိမ်တည်း၌ သံဃာ အကွဲအပြား မရှိပဲ တညီတညွတ်တည်း ပြုပါမှ သံဃကံ အောင်မြင်သည်။ ထိုသို့ မဟုတ်ပါပဲ သံဃကံ ပြုနေဆဲမှာ သံဃအစည်းအဝေးမှ အပြင်ဖက် နှစ်တောင့်ထွာ(ဟတ္ထပါသ်)ထက် ဝေးသောအရပ်၌ ဆန္ဒမပေးသော ရဟန်းတပါးမျှ ရှိနေလျှင်ပင် သံဃာ အစုကွဲနေသောကြောင့် ထိုသံဃကံပျက်၏။ ထို့ကြောင့် ရဟန်းသံဃာ ပေါများသော အရပ်ဒေသ၌ ဂါမသိမ်ထဲတွင် သံဃာအားလုံး တပေါင်းတည်း ရုံးစေ၍ ကံပြုရန်မှာ ခဲယဉ်းလှ၏။ ထို့ကြောင့် တပေါင်းတည်း အညီအညွတ် သံဃာ စည်းရုံးရေး လွယ်ကူစေရန်အလို့ငှာ နယ်ကျဉ်းသော ဗဒ္ဓသိမ်ကို သမုတ်ရန် မြတ်စွာဘုရားက ခွင့်ပြုထားပေသည်။

## သိမ်သမုတ်နည်း

ဂါမသိမ်မည်သော ရွာနယ်ထဲ၌ သိမ်သမုတ်လိုလျှင် ထိုရွာနယ်ထဲတွင်ရှိသော ရဟန်းများကို အကုန်လုံး ပင့်ဆောင်ရသည်။ မလာရောက်နိုင်သော ရဟန်းများ ရှိနေလျှင် ထိုရဟန်းတို့၏ သဘောတူကြောင်း ဆန္ဒကို ဆောင်ယူရသည်။ ရှေးက သမုတ်ထားသော သိမ်ဟောင်းပေါ်၌ ထပ်၍ မသမုတ်အပ်သောကြောင့် သိမ်ဟောင်းရှိနေလျှင် ပျက်ပြယ်သွားစေရန် အလို့ငှာ သမုတ်မည့်နေရာ၌ ရှေးဦးစွာ သိမ်နုတ်ရသည်။ သိမ်ဟောင်း မရှိဟု သေသေချာချာ သိလျှင်ကား နုတ်ရန်မလိုပြီ။ သိမ်သမုတ်နေဆဲမှာ ထိုရွာနယ်အတွင်းသို့ တခြားမှ ရဟန်းများ မဝင်လာစေရ။ ထိုရွာနယ်စပ် ဝင်ပေါက်လမ်းများ၌ အစောင့်ချထားရသည်။ သိမ်သမုတ်မည့် မြေကွက်ပတ်လည် အရပ်လေးမျက်နှာ၌ ဖြစ်စေ၊ ရှစ်မျက်နှာ၌ ဖြစ်စေ ကျောက်တုံး၊ ရေ စသော အမှတ်နိမိတ်များကို အသင့် ထားရှိစေရသည်။

ဤ ပုဗ္ဗကိစ္စများ ပြည့်စုံသောအခါ စွမ်းနိုင်သော ရဟန်းတော် တပါးက ယခု သမုတ်မည့် သိမ်၏ အရှေ့အရပ်၌ အမှတ်အသား နိမိတ်ကား အဘယ်ပါနည်းဟု မေးရသည်။ အခြား ရဟန်းတော်တပါးက ထိုအရပ်၌ တည်ရှိနေသော နိမိတ်အားလျော်စွာ ကျောက်တုံးပါဘုရား၊ ရေပါဘုရား စသည်ဖြင့် ဖြေကြား လျှောက်ထားရသည်။ ထိုအခါ ပဌမ ရဟန်းတော်က ဤကျောက်တုံးသည် ယခု သမုတ်မည့် သိမ်၏ အမှတ်နိမိတ်ဟု သံဃာတော်တို့အား ပြောကြား ကျေညာရ လေသည်။ ထိုနောက် အရှေ့တောင်အရပ်၊ တောင်အရပ် စသည်ဖြင့် နိမိတ်ရှိရာ အရပ်များကို အစဉ်အတိုင်း လကျ်ာရစ်လှည့်၍ အထက်နည်းတူပင် မေး ဖြေ ပြောကြား ကျေညာပြီးလျှင် နောက်ဆုံး၌ အရှေ့အရပ်ကိုလည်း တဖန်ထပ်၍ နည်းတူပင် မေးရဖြေရ ပြောကြား ကျေညာရသည်။ ဤသို့ ပတ်ပတ်လည် နိမိတ်ချင်း ဆက်စပ်မိအောင် ပြောကြား ကျေညာပြီးလျှင် စွမ်းနိုင်သော ရဟန်းတပါးက သံဃာတော်အား အောက်ပါအတိုင်း ကျေညာပြောကြားလျက် သံဃာ၏ ကိုယ်စား သိမ်ကို သမုတ်ရသည်။

"အရှင်ဘုရားတို့၊ သံဃာတော်သည် အကျွန်ုပ်၏စကားကို နားဆင်တော်မူပါလော့။ ပတ်ဝန်းကျင်၌ နိမိတ်တို့ကို ကျေညာပြီးပါပြီ။ အခါအခွင့် သင့်ပါလျှင် သံဃာတော်သည် ယင်းနိမိတ်တို့ဖြင့် သာတူညီမျှ ဆက်ဆံရာ၊ တပေါင်းတည်း ဥပုသ်ပြုရာ သိမ်ကို သမုတ်ရာ၏။ ဤသည်ကား ရှေးဦးစွာ တိုင်ကြား သိစေသော အဆိုတင်သွင်းချက် ဖြစ်ပါသည်။

"အရှင်ဘုရားတို့၊ သံဃာတော်သည် အကျွန်ုပ်၏ စကားကို နားဆင်တော်မူပါလော့။ ပတ်ဝန်းကျင်၌ နိမိတ်တို့ကို ကျေညာ ပြီးပါပြီ။ သံဃာတော်သည် ထိုနိမိတ်တို့ဖြင့် သာတူညီမျှ ဆက်ဆံရာ၊ တပေါင်းတည်း ဥပုသ်ပြုရာ သိမ်ကို သမုတ်ပါ၏။ သဘောမတူလျှင် ကန့်ကွက် ပြောဆိုနိုင်ပါသည်။ သဘောတူလျှင် ဆိတ်ဆိတ်နေပါ။

"သံဃာတော်က ယင်းနိမိတ်တို့ဖြင့် သာတူညီမျှဆက်ဆံရာ၊ တပေါင်းတည်း ဥပုသ်ပြုရာ သိမ်ကို သမုတ်ပြီးပါပြီ။ သံဃာတော်က နှစ်သက်သဘောတူပါသည်။ ထို့ကြောင့် ဆိတ်ဆိတ်နေပါသည်။ ဤသို့ ဆိတ်ဆိတ်နေသဖြင့် သဘောတူကြောင်း အကျွန်ုပ်က အသိအမှတ် ပြုပါသည်။"

အထက်ပါအတိုင်း သမုတ်ထားသော သိမ်ကို ဗဒ္ဓသိမ်ဟု ခေါ်သည်။ ဤ ဗဒ္ဓသိမ်၌ သံဃကံကိုပြုလျှင် ယင်းသိမ်အတွင်းက ရဟန်းများလောက်သာ အညီအညွတ် စည်းဝေးမိဖို့လိုသည်။ ကံပြုနေဆဲမှာ ယင်းသိမ်၏ ပြင်ဖက်၌ ရဟန်းများ ရှိနေသော်လည်း ကံမပျက်။ ယင်း ဗဒ္ဓသိမ်မှာလည်း များသောအားဖြင့် ပေလေးငါးခြောက်ဆယ်ပတ်ရာလောက်သာ ရှိသောကြောင့် အတွင်းရှိ သံဃာအားလုံး တပေါင်း

တည်း စုဝေးရန်နှင့် ကံပြုနေစဉ် အပြင်မှ အခြားရဟန်းများ မဝင်လာစေရန် ကိစ္စများမှာ အလွန်ပင်လွယ်ကူလှပေသည်။ ရဟန်းပြုပေးပုံကို ပြရာတွင် သိမ်တွင်းသို့ ဆောင်သွား၍ ပြုပေးသည်မှာလည်း ဤ အညီအညွတ် သံဃာစည်းရုံးရေး လွယ်ကူစေရန်အတွက် ဖြစ်ပေသည်။

ဝိသုံဂါမ တောင်းယူ၍ သိမ်သမုတ်ခြင်း

အထက်ပါ ပြဆိုခဲ့သည့်အတိုင်း ဂါမသိမ်ခေါ် ရွာနယ် ထဲ၌ သိမ်သမုတ်ရခြင်းသည် ရဟန်းသံဃာ ပေါများသော အရပ်ဒေသ၌ သံဃာအားလုံးကို စုရုံးစေရန်နှင့် သိမ်သမုတ် ဆဲမှာ ထိုရွာနယ်အတွင်းသို့ အပြင်ပမှ ရဟန်းများ မဝင် လာစေရန် ကိစ္စအတွက် မလွယ်ကူလှ၊ ခဲယဉ်း၏။ ထို့ကြောင့် ထိုသို့ မခဲယဉ်းစေရန် မူလရွာနယ် ဂါမသိမ်ထဲမှ ခွဲထုတ်၍ ဝိသုံဂါမ သီးခြားရွာနယ် သတ်မှတ်ပေးရန် အစိုးရမင်းများ ထံ သက်ဆိုင်ရာ လူပုဂ္ဂိုလ်တဦးက လျှောက်တောင်းရသည်။ အစိုးရမင်းတို့က ထိုမြေကွက်ကို မူလသူကြီးပိုင် ရွာနယ် အဖြစ်မှ ခွဲထုတ်၍ သီးခြားရွာနယ်အဖြစ်ဖြင့် လျှောက်သူ အား ပေးလျှင် ထိုမြေကွက်သည် ဝိသုံဂါမ ဖြစ်၏။ မူလ ရွာနယ်နှင့် မဆိုင်သော သီးခြားရွာနယ်ကလေးဟု ဆိုလို သည်။ ဤအရာ၌ အချို့က အပိုင်စားပေးမှ ဝိသုံဂါမ မြောက်သည်ဟု ယူဆကြ၏။ မူလ ရွာသူကြီး၏ အခွန် ကောက်ခံရာ အုပ်ချုပ်ရာ နယ်ပယ်အဖြစ်မှ လွတ်ခြင်းသည် သာလျှင် ဝိသုံဂါမ ဖြစ်ခြင်း၏ ပဓာနအကြောင်း ဖြစ်သည်။ အစိုးရမင်းတို့က ခွဲခြားထားသည့်အတိုင်း ရွာနယ်တခုသည် အခြား ရွာနယ်နှင့် မရောယှက်ပဲ သီးခြား ရွာနယ် ဖြစ်သကဲ့ သို့ ပင်တည်း။

ဤ ဝိသုံဂါမသိမ်ထဲ၌ ဗဒ္ဓသိမ်သမုတ်လျှင် ယင်း ဝိသုံဂါမ မြေကွက်အတွင်းရှိ ရဟန်းများလောက်သာ အညီအညွတ် စည်းဝေး၍ ရှေး၌ ပြခဲ့သော နည်းအတိုင်းပင် သမုတ်ရ သည်။ ဤ ဝိသုံဂါမသိမ်၌ ဗဒ္ဓသိမ် သမုတ်ရခြင်းမှာ နယ် ကျဉ်းသောကြောင့် သံဃာအားလုံး တပေါင်းတည်း စုရုံး ရန်နှင့် အပြင်ပမှ ရဟန်းများ မဝင်လာစေရန်အတွက် လွယ်ကူလှပေသည်။ ထို့ကြောင့်ပင် ဝိသုံဂါမ တောင်းယူ၍ သမုတ်ရခြင်း ဖြစ်သည်။ အထူး မှတ်ရန်မှာ သိမ်နုတ်ရာ၊ သိမ်သမုတ်ရာ၌ ရဟန်းလေးပါးထက်မနည်း ပါဝင်သော သံဃာက ဆောင်ရွက်ရသည်။

**သိမ်းငှက်။** ။သိမ်းငှက်သည် လင်းယုန်၊ စွန်၊ လင်းတ တို့နှင့် အတူ ဖယ်လကိုနီဖောမီး မျိုးစုတွင် အက်ကဆစ် ပစ်ထရီဒီး မျိုးရင်း၌ ပါဝင်၍ ပါဏဗေဒ အလိုအားဖြင့် အက်ကဆစ်ပစ်တာနီဆပ် မီလန်နိုစကီးစတပ်ဟုခေါ် သည်။ အလျား ၁၃ လက်မမှ ၁၅ လက်မထိ ရှိသည်။ သိမ်းငှက်၏ ထူးခြားချက်မှာ ချိုးသိမ်းကဲ့သို့ပင် သိမ်းမသည် သိမ်းဖို



သိမ်းငှက်

ထက် ကိုယ်ထည် အတော်အတန်ကြီးသည်။ သိမ်းဖိုကား ချိုးသိမ်း အကောင်ကြီးလောက်ရှိ၍ ယင်းနှင့်လည်း ပုံပန်း သဏ္ဌာန်ချင်း တူသည်။ သိမ်းမ၏ အပေါ်ပိုင်းသည် အတော် အတန် ညို၍ မျက်ကွင်း ဖြူတူတူ ရှိသည်။ အောက်ပိုင်းများ သည် အဖြူ၊ သို့မဟုတ် အနီရောင် ဖျော့ဖျော့ဖြစ်၍ အမည်း စင်းများ ရှိသည်။

သိမ်းငှက်သည် သားပေါက်သည့် ရာသီတွင်သာ စူးစူးရှရှ အော်မြည်တတ်၍ အခြား အချိန်များတွင် မအော်ပဲ ဆိတ်ငြိမ်စွာ နေတတ်သည်။ မြန်မာနိုင်ငံ သစ်တောများ တွင် များသောအားဖြင့်နေလေ့ရှိသည်။ သို့သော်အမြဲတမ်း မနေပဲ ဆောင်းတွင်းမှသာ လာရောက် ကျက်စားသည်။

သိမ်းငှက်သည် တောစပ် ရေစပ်များတွင် အစာရှာဖွေ သည့် အခါ မြေကြီးနှင့်ကပ်၍ လျင်မြန်စွာ ပျံသန်း တတ်သည်။ အစာကို ရှောင်တခင် တဟုန်တိုး ထိုးသုတ် တတ်ရုံမက ငှက်ကလေးများကို အမှီလိုက်၍ ပျံပြီးလျှင် မိအောင် ဖမ်းဆီးတတ်လေသည်။ စာကလေး၊ ကြွက် စသော နို့တိုက်တိရစ္ဆာန်ငယ်နှင့် ပိုးမွှားများကို များသော အားဖြင့် စားသောက်သည်။ မြေကြီးပေါ်တွင် လမ်း လျှောက်တတ်သည့်ပြင် ခုန်ဆွခုန်ဆွလည်း သွားတတ်သည်။ သိမ်းငှက်သည် မျက်စိ အလွန်ရှင်သဖြင့် လျင်မြန်စွာ ပြေး သွားနေသော တိရစ္ဆာန်များကို အဝေးမှ ကောင်းစွာ မြင်နိုင်သည်။

**သိမ်းတိုက်ခြင်း။** ။သိမ်းတိုက်ခြင်း ဆိုသည်မှာ သိမ်းငှက် စသော သွန်သင်လေ့ကျင့်ထားသည့် ငှက်တိန်ညင်များဖြင့်



သွန်သင်လေ့ကျင့်ပေးထားသော သိမ်းငှက်ဖြင့်
ငှက်များဖမ်းယူခဲ့ကြသည်။

ငှက်ဖမ်းနည်းအတတ် ဖြစ်ပေသည်။ ထိုအတတ်မှာ အလယ်ခေတ် အခါက ဥရောပတိုက်တွင် အလွန်ခေတ်စားခဲ့သော အတတ်တခု ဖြစ်ခဲ့ရာ အာဟာရအလို့ငှာ ငှက်များကို လိုက်ဖမ်းခြင်းထက် တောလိုက်ခြင်းများကဲ့သို့ အပျော်တမ်း ကိုယ်လက်ကြံ့ခိုင်ရေး ကစားနည်းတရပ် ဖြစ်ပေ၏။ ထိုအတတ်မှာ ဥရောပတိုက်တွင် ထိုခေတ်အခါကမှ စတင်ပေါ်ပေါက်သည် မဟုတ်ပေ။ တရုပ်၊ ဂျပန်၊ အိန္ဒိယ၊ အာရေဗျ၊ အီရန်နှင့် ဆီးရီးယား စသော တိုင်းပြည်များတွင် ခရစ်မပေါ်မီ နှစ်ပေါင်း ရာထောင်မကသည့် အခါကပင် ပေါ်ပေါက်ခဲ့ကြောင်း အထောက်အထားများကို တွေ့ရှိရလေသည်။

ထိုအတတ်ဖြင့် အသုံးချရန် သိမ်းငှက်များကို သွန်သင်သူ၏ အလိုအတိုင်း အလွန်တရာ စိတ်ရှည်စွာနှင့် တဖြည်းဖြည်း လေ့ကျင့်ပေးရ၏။ ထိုငှက်များကို အတောင်အလက် မစုံခင် ငယ်ရွယ်စဉ်ကရင်း၊ အတောင်အလက် စုံပြီးမှရင်း ဖမ်းယူ၍ လေ့ကျင့်ပေးနိုင်လေသည်။ ယင်းတို့ကို ဖမ်းယူရန်လည်း မလွယ်ကူလှပေ။ ထိုငှက်များသည် လူသူ အရောက်အပေါက် နည်းလှသော တောင်ကမ်းပါးစောက်၏ ထိပ်များတွင် အသိုက်လုပ်ကာ နေကြ၏။ ထိုကြောင့် ယင်းတို့ကို ထောင်ချောက်များတွင် အစာပြ၍များကာ ဖမ်းယူကြရလေသည်။ ထိုငှက်များကို ဖမ်းယူသည့် ထောင်ချောက်များမှာလည်း တကျောင်းတဂါထာ ဆိုသကဲ့သို့ တိုင်းပြည်နိုင်ငံအလိုက် နည်းအမျိုးမျိုးဖြင့် ပြုလုပ်၍ ဖမ်းကြလေသည်။

သိမ်းငှက်များကို လေ့ကျင့်ရာတွင် ယင်းတို့အား မှောင်ထဲ၌ ထား၍ အစာငတ်ထားပြီးလျှင် အားနည်းစေလျက် အလိုရှိသလို ခိုင်းစေ၍ရအောင် တဖြည်းဖြည်းလေ့ကျင့်ရရာ နောင်အခါတွင် ဆရာ၏ လက်နှင့်အသံကို ကောင်းကောင်း မှတ်မိလာလေသည်။ ထိုငှက်တို့သည် နောင်အခါတွင် မိမိတို့၏ သခင်အား အလွန်ခင်မင်တတ်သော ငှက်မျိုးဖြစ်လာ၏။ ငှက်လိုက်ရာ၌ အသုံးပြုသော ငှက်တိန်ညင် များကို ခေါင်းစွပ် စွပ်၍ ခြေထောက်များတွင် ခေါင်းလောင်းကလေးများ တပ်ထားသော သားရေပြား ကလေးများ ပတ်ထားလေသည်။

သိမ်းငှက်များမှာ အမျိုးမျိုး အစားစား ရှိ၍ အချို့ကို ငှက်များဖမ်းရာ၌ အသုံးချသော်လည်း အချို့ကိုမူ မြေပြင်နှင့် ရှပ်၍ ပျံသန်းကာ ယုန်နှင့် မြေကြွက် စသည့် သတ္တဝါတို့ကို ထိုးသုတ်ရာ၌ အသုံးချကြ၏။ ငှက်ဖမ်းရာ၌ အသုံးပြုသော ငှက်တိန်ညင်များကို အစာကောင်းစွာ ကျွေးမွေးထားကာ အကောင်းဆုံးသော ကျန်းမာရေး အခြေအနေ၌ တည်ရှိလေအောင် ထားပေးရလေသည်။ သို့သော် ငှက်ဖမ်းရန် အသုံးပြုမည့် အချိန်၌ကား ငှက်တိန်ညင်တို့ကို မိမိတို့ ဖမ်းရမည့် ငှက် စသည့် သတ္တဝါတို့ အပေါ်၌ မိမိတို့ အစာအဖြစ် သဲသဲမဲမဲ မရအရ ဖမ်းချင်သည့် စိတ်ဓာတ်မျိုး ဖြစ်ပေါ်သည့် အခြေရောက်အောင် အစာကို လျှော့ကျွေးတတ်သည်၊ သို့မဟုတ် အငတ် ထားတတ်ကြလေသည်။ လေ့ကျင့်သားရပြီးသော ငှက်တိန်ညင်များကို ၁၅ နှစ်မှ အနှစ် ၂၀ တိုင်အောင် အသုံးပြုနိုင်သည်။ ထိုငှက်မျိုး မွေးမြူသူတို့ သတိပြုရသည့် အချက်များမှာ မိမိတို့၏ ငှက်များကို မကြာမကြာ ပျံသန်းစေရန်နှင့် လူတဦးတည်း ငှက်အမြောက်အမြားကို မမွေးမြူရန် ဖြစ်လေသည်။ ငှက်တိန်ညင်များသည် အလွန်တရာ လှုပ်လှုပ်ယွယွ နေတတ်၍ အလွန်လည်း ဖျတ်လပ်လှပေသည်။

ထို ငှက်တိန်ညင်နှင့် ငှက်လိုက်နည်းမှာ လူနှင့် ငှက်တို့ ပူးပေါင်းဆောင်ရွက်ခြင်း များစွာလို၍ ငှက်တိန်ညင်ကို လေ့ကျင့်ပေးရာ၌လည်း များစွာ ဇွဲကောင်းခြင်း၊ စိတ်ရှည်ခြင်းတို့ လိုအပ်လှသဖြင့် တော်ရုံပုဂ္ဂိုလ်တို့ မပြုလုပ်နိုင်ကြပေ။ အလွန်ရှေးကျသော ကျန်းမာရေး ကစားနည်းတမျိုး ဖြစ်ခဲ့သော်လည်း အထူးသဖြင့် အလယ်ခေတ်က ဥရောပတိုက်၌ အလွန် ခေတ်စားခဲ့လေသည်။ သေနတ် စသည့် လက်နက်များ ပေါ်ပေါက်လာသောအခါ ငှက်နှင့်တိရစ္ဆာန်

များကို ငှက်တိန်ညင်များ၏ အကူအညီမလိုပဲ သေနတ်ဖြင့် ပစ်ခတ်ယူနိုင်သောကြောင့် ထိုငှက်ဖမ်းနည်းမှာ အတော်ပင် ခေတ်တိမ်သွားခဲ့သည်။ သို့သော် အချို့တိုင်းပြည်များတွင် ယခုထက်တိုင် ထိုငှက်လိုက်နည်းကို ရှေးစံနစ်အတိုင်း ပြန်လည် အသုံးချနေကြသူများ ရှိကြ ပေသေးသည်။ သို့သော် မများလှပေ။ အင်္ဂလန်၊ ပြင်သစ်၊ ဂျာမနီ၊ အီဂျစ်၊ ဂျပန်၊ ယူဂိုစလားဗီးယား၊ အာရေဗျ စသည့် တိုင်းပြည် များတွင် ထိုငှက်လိုက်နည်း ဝါသနာပါသူတို့၏ အဖွဲ့များ ဖွဲ့စည်း၍ထိုနည်းကို ကျန်းမာရေး ကစားနည်းတမျိုးအဖြစ် အသုံးချနေကြ လေသည်။ အီရန်၊ အာရေဗျ၊ အိန္ဒိယ၊ တရုပ်နှင့် အာဖရိကတိုက် မြောက်ဖက် သဲကန္တာရဒေသ လူရိုင်းမျိုးတို့တွင်ကား ထိုငှက်လိုက်နည်းကို ရှေးခေတ် အခါက ကဲ့သို့ အသုံးပြုလျက်ပင် ရှိကြလေသည်။

**သုံးခွမြို့။** ။သုံးခွမြို့သည် ရန်ကုန်တိုင်း (ယခင်ပဲခူး တိုင်း ဟံသာဝတီခရိုင်အရှေ့ပိုင်း) တွင်ပါဝင်သော သုံးခွ မြို့နယ်၏ ရုံးစိုက်ရာမြို့ဖြစ်သည်။ သံလျင်မြို့မှ အရှေ့ဖက် သို့ ကုန်းလမ်းခရီးဖြင့် ၂၂ မိုင်အကွာတွင် တည်ရှိရာ မော်တော်ကားများဖြင့် ဥဒဟို သွားလာလျက် ရှိသည်။ ခရစ် ၁၉၂၇ ခုနှစ်က ပဲခူးမြို့မှ သနပ်ပင်၊ ဥနှဲ၊ သက္ကလပ် မြို့များကိုဖြတ်၍ ခရမ်းမြို့အထိ မီးရထားလမ်း ဖောက်လုပ် ဆက်သွယ်ခဲ့ပြီးသည့်နောက် ၁၉၃၁ ခုနှစ်တွင် ပတုပ်မြို့ကို ဖြတ်၍ သုံးခွမြို့အထိ မီးရထားလမ်း ဆက်လက်ဖောက်ခဲ့ သည်။ ပဲခူးမြို့မှ မီးရထားလမ်းအတိုင်း ၄၉ မိုင်ဝေး၍ ခရမ်းမြို့မှ တောင်ဖက်သို့ ၁၁ မိုင်ဝေးသည်။ သို့သော် ထို မီးရထားလမ်းမှာ ဒုတိယ ကမ္ဘာစစ်အတွင်းက ဂျပန်များ ၏ ဖျက်ဆီးခြင်းကို ခံခဲ့ရသည်။ ၁၉၆၅ ခုနှစ် ခန့်မှန်းသန် ကောင် စာရင်းအရ လူဦးရေ ၁၀,၇၂၉ ယောက်ရှိသည်။ မြို့ရွာ သန့်ရှင်း စည်ပင်ရေးအတွက် မျူနီစီပယ်အဖွဲ့ကို ၁၉၂၀ ပြည့်နှစ် ဧပြီလ ၁ ရက်နေ့မှစ၍ ဖွဲ့စည်း ဆောင်ရွက် လာခဲ့သည်။ သို့သော် ယခုအခါ မျူနီစီပယ်အဖွဲ့ဟု မခေါ် စေတော့ပဲ မြို့မကောင်စီဟု အမည်ပြောင်းကာ ဆောင် ရွက်လျက် ရှိလေသည်။

သုံးခွဟု ခေါ်တွင်လာပုံမှာ မှော်ဝန်းချောင်း ဥက္ကံ ချောင်း၊ နံ့ယောချောင်းဟု ခေါ်သော ချောင်းသုံးခွ၏ အဝ၌ တည်ရှိခြင်းကြောင့် သုံးခွမြို့ဟုခေါ်သည်။ ယခင်က ဟံသာဝတီခရိုင်တွင် စပါးအများအပြား ထွက်သော မြို့နယ် ဖြစ်၍ ဆန်စပါးလုပ်ငန်းသည်အဓိကဖြစ်သည်။စပါးလုပ်ငန်း အပြင် ဆားလုပ်ငန်း၊ မြေပဲစိုက်ပျိုးခြင်းလုပ်ငန်းများကို လည်း လုပ်ကိုင်ကြသည်။ မြို့ပေါ်တွင် ဆန်စက်နှင့် ဆီစက် များလည်း ရှိသည်။

သုံးခွမြို့ပေါ်တွင် နိုင်ငံတော် အစိုးရ အထက်တန်း ကျောင်းတကျောင်းရှိသည်။ ပြည်သူ့ရဲတပ်ဖွဲ့စခန်း၊ ဆေးရုံ၊ စာတိုက်တို့လည်း ရှိသည်။ မြို့ပေါ်တွင် ရှစ်မျက်နှာဘုရား နှင့် သွန်းဘုရားကြီးဟူ၍ ဘုရားနှစ်ဆူရှိရာ သွန်းဘုရားကြီး မှာ သုံးခွမြို့၏ အဝတွင် ရှိသည်။ သုံးခွမြို့နယ်တွင် ကျေးရွာ ပေါင်း ၁၇၄ ရှိသည်။ မြို့နယ်တခုလုံး၏ အကျယ်အဝန်းမှာ ၃၁၁ စတုရန်းမိုင်ခန့်ဖြစ်သည်။ မြို့နယ်အတွင်း လူဦးရေ ၁၀၁,၀၀၀ခန့်(၁၉၇၂ ခုနှစ် ခန့်မှန်းခြေ) နေထိုင်လျက်ရှိ၏။ လယ်ယာ ကိုင်း ကျွန်းများကိုမှီ၍ သက်မွေးဝမ်းကျောင်းသူ များပြားသည်။ စပါးများကို နိုင်ငံတော် ကောက်ပဲသီးနှံ ရောင်းဝယ်ရေးအဖွဲ့ (ကုန်သွယ်ရေးကော်ပိုရေးရှင်း-၁) မှ စပါးဒိုင်များဖွင့်၍ တိုက်ရိုက်ဝယ်ယူကြသည်။

**သုံးဆယ်မြို့။** ။သုံးဆယ်မြို့သည် သာယာဝတီခရိုင်၊ သာယာဝတီမြို့နယ်အတွင်းရှိ စည်ကားသော မြို့တမြို့ဖြစ် သည်။ သာယာဝတီမြို့သည် သုံးဆယ်မြို့နှင့် နှစ်မိုင်မျှသာ ကွာဝေး၍ ခရိုင်နှင့် မြို့နယ်ရုံးစိုက်ရာ မြို့ဖြစ်သော်လည်း သုံးဆယ်မြို့လောက် မစည်ကားချေ။ သုံးဆယ် မျူနီစီပယ် နယ်နိမိတ်၏ ဆင်ခြေဖုံးကဲ့သို့ ဖြစ်နေလေသည်။ သုံးဆယ် မြို့၏ မြို့ရွာ သန့်ရှင်း စည်ပင်ရေးအတွက် မျူနီစီပယ် အဖွဲ့ကို ခရစ် ၁၈၉၇ ခုနှစ်မှစ၍ ဖွဲ့စည်းဆောင်ရွက်လာခဲ့ သည်။ ၁၉၆၅ ခုနှစ် သန်ကောင်စာရင်းအရ သုံးဆယ်မြို့ ၏ လူဦးရေမှာ ၁၄,၄၄၃ ယောက် ဖြစ်သည်။ မြို့နယ် ရုံး စိုက်ရာမြို့ မဟုတ်သော်လည်း များစွာသော အစိုးရ အမှု ထမ်းအရာထမ်းတို့မှာ သုံးဆယ်မြို့တွင် နေ၍ မြောက်ဖက် နှစ်မိုင်မျှသာဝေးသော သာယာဝတီမြို့သို့ မိမိတို့ဆိုင်ရာ ရုံး ကိစ္စအလုပ်ဝတ်တရားများ ဆောင်ရွက်ရန် နေ့စဉ် သွား ရောက်လေ့ရှိကြသည်။

ရန်ကုန်-ပြည် မီးရထားလမ်းနှင့် မော်တော်ကား လမ်းပေါ်တွင် တည်ရှိသော သုံးဆယ်မြို့သည် ရန်ကုန်မြို့မှ မီးရထားလမ်းအတိုင်း ၆၆ မိုင်ဝေး၍ ပြည်မှ ၉၃ မိုင် ဝေး သည်။ မော်တော်ကားလမ်းအတိုင်းဆိုသော် ရန်ကုန်မြို့မှ ၇၅ မိုင်ဝေးကွာသည်။လမ်းပန်းဆက်သွယ်ရေးကောင်းမွန်၍ ပစ္စည်းများကို မီးရထား၊ မော်တော်ကားများဖြင့် သယ်ယူ ပို့ဆောင်နိုင်သဖြင့် အရောင်းအဝယ် အလုပ်အကိုင်ကောင်း သည်။ သုံးဆယ်မြို့၏ ပတ်ဝန်းကျင်မှ ဆန်စပါးများစွာ ထွက်သည်။ သုံးဆယ်မြို့မချောင်းမှ ကျွန်းသစ်များမျော ကာ သစ်လုပ်ငန်း လုပ်ကိုင်ကြသည်။ မြို့တွင်း၌ ကိုးထပ် ကြီးဘုရား၊ မဟာစေတီလှပုထိုးတော်၊ ရွှာပုံစည်းခုံစေတီ တော်၊ ထူပါရုံကျောင်းတိုက်စသည့် စေတီပုထိုး ကျောင်း တိုက်တို့ ရှိကြသည့်ပြင် ကျောင်းသား ၇၀၀ မှ ၁,၀၀၀ ခန့် မျှ ပညာသင်ကြားနိုင်သော အစိုးရအထက်တန်းကျောင်း ကြီးကိုလည်း ၁၉၅၃-၅၄ ခုနှစ်တွင် တည်ဆောက် ပြီးစီး

ခဲ့သည်။ ထို့ပြင် ပြည်သူ့ရဲ တပ်ဖွဲ့စခန်း၊ စာတိုက်၊ ဆေးပေးခန်းတို့လည်းရှိသည်။ မြို့အလယ်ရှိ ရွှေဟသာံရေကန်ကြီးမှာလည်း တင့်တင့်တယ်တယ် ရှုမငြီးဖွယ် ရှိလှပေသည်။

ယခု သုံးဆယ်မြို့ တည်ရှိရာဒေသတွင် ရှေးအခါက သုံးဆယ်မြို့ဟူ၍ မရှိသေးပဲ ရွာမ၊ စံရွေး၊ ဆင်စု စသော ရွာများသာရှိသည်။ ရွာမရွာသည် ယခု သုံးဆယ်မြို့မ ချောင်းကမ်းပါး၌ တည်ရှိ၍ လယ်တဲကလေး ၁၀ တဲခန့်သာ ရှိခဲ့သည်။ ကျွန်းသစ်လုပ်ငန်းကြောင့် ရွာမရွာသည် တဖြည်းဖြည်း စည်ကားလာပြီး ရွာကြီးဖြစ်လာသည်။ ရွာမ၌ လူအခြေစိုက်မိသောအခါ ယခင်က မြို့ကလေးအဖြစ် တည်ရှိနေသော စံရွေးမှ လူများသည် သစ်လုပ်ငန်း လုပ်ကိုင်ရန် ရွာမသို့ တစတစ ပြောင်းရွှေ့လာကြသည်။ အချို့လူများသည် ရွာမတွင် နေထိုင်ကြပြီးလျှင် အချို့မှာ ယခု သုံးဆယ်မြို့တည်ရာ ချောင်းကမ်းဖြစ်သော ဆင်စု၌ လာရောက် အခြေစိုက်ကြသည်။ သစ်လုပ်ငန်းတွင်ကျယ်လာသဖြင့် ဆင်စုရွာသည် အိမ်ခြေ ၂၀ ခန့်လောက် ဖြစ်လာသည်။ သစ်များ ဖောင်ဖွဲ့ရာတွင်၎င်း၊ သစ်စွပ်ရာတွင်၎င်း ဆင်များကို အထူးအသုံးပြုကြရာ ထိုနေရာ၌ များသောအားဖြင့် ဆင်သမားများသာ နေထိုင်ကြသည်။ ဆင်အကောင်ပေါင်းများစွာစု၍ ချောင်းကမ်းပါး ညောင်ပင်ကြီးအောက်၌ ချည်လှောင်ရှိသောကြောင့် ထိုနေရာသည် "ဆင်စု"ဟု အမည်တွင်ခဲ့လေသည်။ ရွာမနှင့် ဆင်စုသည် တခေါ် ခန့်လောက်သာ ဝေးသည်။ သစ်လုပ်ငန်းကြောင့် ထိုနှစ်ရွာသည် စည်ကားလာသည်။

ထိုရွာကလေးများ သာယာသော အချိန်သည် ဘကြီးတော်ဘုရားလက်ထက် အင်္ဂလိပ်–မြန်မာ ပဌမစစ်ပွဲ ဖြစ်ပွားသည့်အခါ ဖြစ်ပေသည်။ ထိုအချိန်တွင် စစ်သူကြီး မဟာဗန္ဓုလ၏ အမိန့်တော်ဖြင့် အောက်ပြည်တလွှားရှိ နယ်ပယ်များမှ စစ်သည်တော်များ စုဆောင်းကြရသည်။ ရွာမနှင့်ဆင်စုရှိ ရွာသားများထံမှ စစ်သည်တော်များ စုဆောင်းရာတွင် စစ်ရေး၌ စွမ်းဆောင်နိုင်မည့် ယောကျာ်း အာဇာနည်ပေါင်း သုံးဆယ် ရရှိလေသည်။ ဤသို့ စစ်သည် သူရဲကောင်းသုံးဆယ်ပို့ဆက်ရသောအကြောင်းကို အစွဲပြု၍ အင်္ဂလိပ်–မြန်မာ ပဌမစစ်ပွဲ ပြီးဆုံးသွားသောအခါ ထိုရွာမနှင့် ဆင်စုကို "သုံးဆယ်"ဟု ခေါ်တွင်လာကြလေသည်။ ဘကြီးတော်ဘုရားလက်ထက်မှစ၍ သုံးဆယ်မြို့သည် အိမ်၊ဈေး၊ သစ်ဆိုင်တို့ဖြင့် တဖြည်းဖြည်း တိုးတက်စည်ကားလာလေသည်။

**သုံးဆဲ့ခုနစ်မင်း။** ။ယခုအခါ မြန်မာနိုင်ငံတွင် ရှေးအစဉ်အဆက်အရ သုံးဆဲ့ခုနစ်မင်းနတ်ဟူ၍ အသင်အရှား ရှိနေရာ၊ အချို့က နှစ်သက်စွာ လက်ခံကြ၍၊ ဗုဒ္ဓဘာသာတော်ကို ပြတ်သားစွာ လက်ခံကျင့်သုံးသူ အချို့တို့ကမူ ဝေဖန်ရှုတ်ချကြသည်။ သုံးဆဲ့ခုနစ်မင်း ဆိုရာ၌ အတွင်း ၃၇ မင်း၊ အပြင် ၃၇ မင်းဟူ၍ ရှိရာတွင် ယခုအခါ ယုံကြည်ကိုးကွယ်နေကြသော ၃၇ မင်းကား အပြင် ၃၇ မင်းပင် ဖြစ်သည်။ (နတ် — လည်းရှု။)

နတ်ကိုးကွယ်ခြင်းသည် ရှေးခေတ်ကတည်းက အစဉ်အလာ ရှိခဲ့ရာ အနော်ရထာမင်း မတိုင်မီအထိ နန်းစဉ်အသိအမှတ်ပြုခဲ့သော အရေအတွက်မှာ ၃၆ မင်းသာ ရှိခဲ့သည်။ ထိုနတ်တို့အနက် မဟာဂိရိနတ်သည် ပဌမဆုံးနတ် ဖြစ်သဖြင့် နတ်တို့၏ အကြီးအကဲ ဖြစ်ခဲ့သည်။ သို့သော်လည်း အနော်ရထာမင်း လက်ထက်တွင် မဟာဂိရိနတ်ကို နတ်အကြီးအကဲ နေရာတွင် မထားလိုရကား ဗုဒ္ဓဘာသာ နတ် ဖြစ်သည့် သိကြားနတ်အား နတ်တို့၏ အကြီးအကဲအဖြစ် ထား၍ နတ်တို့၏ အရေအတွက်ကို ၃၇ သို့ ပြောင်းလိုက်ပြီးလျှင် ယင်းတို့၏ ရုပ်ပုံများကို ထုလုပ်ကာ ရွှေစည်းခုံဘုရား၏ တံတိုင်းအပြင်ဖက်၌ ထားရှိ ကိုးကွယ်လေသည်။ သို့ဖြင့် အပြင် ၃၇ မင်းနတ် ဟူ၍ ဖြစ်ပေါ် လာလေသည်။ အနော်ရထာမင်း နတ်ရွာစံတော် မူပြီးသည့်နောက်၌ကား ၃၇ မင်း၏ အရေအတွက်ကို မည်သည့်မင်းမှ မပြောင်းဝံ့ကြချေ။ သို့သော် အနော်ရထာမင်း လက်ထက်က ပြုလုပ်ခဲ့သော ၃၇ မင်း နတ်စာရင်းသည် ကာလကြာမြင့်လတ်သော် မူလ စာရင်းအတိုင်း မရှိတော့ပဲ အချို့ နတ်ဟောင်းများ နေရာတွင် နတ်သစ်များဖြင့် အစားထိုးခဲ့ကြပြီးလျှင် အချို့ အမည်တူသည့် ရှေးနတ်များနှင့် နောက် နတ်သစ်များကိုလည်း ပေါင်းလိုက်ကြပြန်သည်။ သို့ဖြင့် အခါအားလျော်စွာ မင်းအဆက်ဆက်တို့၏ အမိန့်ဖြင့် ၃၇ မင်း နတ်စာရင်းကို သတ်မှတ်လာခဲ့ကြသည်။ အင်းဝ–ငါးထပ်ကြီးဒါယကာမင်း(ပင်းတလဲမင်း) (မြန်မာ ၁၀၁၀–၁၀၂၃) လက်ထက်တွင် စာရင်းဟောင်းတို့ကို သုတ်သင်ပြင်ဆင်၍ အပြင် ၃၇ မင်း စာရင်းသစ်တခု ရေးသည်ဟု မှတ်တမ်းရှိသည်။ ထို မှတ်တမ်းကို မတွေ့ရသော်လည်း သက္ကရာဇ် ၁၁၆၀ ပြည့်နှစ်တွင် နန်းတက်သော မာရ်အောင် ဒါယကာ စနေမင်း၊ နောက် တနင်္ဂနွေမင်း၊ နောက် ဟံသာဝတီရောက်မင်း ဤ မင်းသုံးဆက်မှီသော ဝန်ကြီး ပဒေသရာဇာသည် ၃၇ မင်း နတ်ချင်းများကိုရေးခဲ့ရာ၊ ဝန်ကြီး ပဒေသရာဇာ၏ ၃၇ မင်း နတ်သံစာရင်းမှာ ထိုသို့ပြင်သည်ဆိုသော စာရင်းအရ ရေးသားခြင်း ဖြစ်မည်ဟု တွေးရန်ရှိ၏။

ဘိုးတော်လက်ထက် ၁၁၆၇ ခုနှစ် တန်ဆောင်မုန်း လဆန်း ၅ ရက်နေ့တွင် ရှေးအစဉ်အဆက်က ပသခဲ့သော ၃၇ မင်း နတ်တို့ကို ပွဲကနားပေးရာ၌ မည်သို့ ကခုန်သည့် အချက်အလက်တို့ကို နတ်ထိန်းနတ်နေ အတီးသမားတို့အား မေးစစ် မှတ်သားရမည်ဟု အိမ်ရှေ့ဘုရား အမိန့်တော်နှင့်

ဦးစ(ဇေနောင် မြဝတီဝန်ကြီး ဦးစ)သည် ဆိုင်းဆရာ ဦးမြသာ၊ ဦးတရုပ် စသည်တို့ကို မေးစစ်ရသည်။ ထိုနောက် ဘကြီးတော် လက်ထက် ၁၁၈၂ ခုနှစ် သီတင်းကျွတ်လဆန်း ၄ ရက်နေ့တွင် ဒုတိယအကြိမ်အားဖြင့် ၃၇ မင်း နတ်အကြောင်းကို ဦးစ စုံစမ်းရပြန်သည်။ ယင်း စုံစမ်းချက်မှာ ယခင် ၁၁၆၇ ခုနှစ်က စုံစမ်းချက်တို့၏ အဆက်ဖြစ်၏။ နတ်ထိန်းကြီး ကဝိ ဒေဝကျော်၊ ရာဇဝင် ဦးနု စသော ရာဇဝင်တတ်တို့နှင့် ညှိနှိုင်း၍ ၃၇ မင်း နတ်စဉ်အမျိုးအမည် အတ္ထုပ္ပတ္တိ ဆင်ယင်ပသနည်း၊ တီးမှုတ်နည်းနှင့် နတ်သံများကို ရွှေနန်းတော်သို့ ရေးမှတ် အစီရင်ခံရလေသည်။

ယခုအောက်တွင် ဖော်ပြထားသော အပြင် ၃၇ မင်း နတ်တို့၏ စာရင်းမှာ ထိုသို့ မြဝတီဝန်ကြီး မှတ်သား စုထားသည့် စာရင်း ဖြစ်သည်။

၁။ သိကြားနတ်
၂။ မဟာဂိရိနတ်
၃။ နှမတော်နတ်
၄။ ရွှေနပေနတ်
၅။ သုံးပန်လှနတ်
၆။ ရှင်နဲမိနတ်
၇။ တောင်မကြီး ရှင်ညိုနတ်
၈။ မြောက် မင်းရှင်ဖြူနတ်
၉။ ထီးဖြူဆောင်းနတ်
၁၀။ ထီးဖြူဆောင်း မယ်တော်နတ်
၁၁။ ပရိမ္မရှင် မင်းခေါင်နတ်
၁၂။ ရွှေဖျဉ်းကြီးနတ်
၁၃။ ရွှေဖျဉ်းငယ်နတ်
၁၄။ မန္တလေး ဘိုးတော်နတ်
၁၅။ ရှင်ကွနတ်
၁၆။ ညောင်ချင်းအိုနတ်
၁၇။ မင်းစည်သူနတ်
၁၈။ မင်းသား ဒန်းမောင်ရှင်နတ်
၁၉။ မင်းကျော်စွာနတ်
၂၀။ အောင်စွာမကြီး နတ်
၂၁။ ရွှေစစ်သင်နတ်
၂၂။ မယ်တော် ရွှေစကားနတ်
၂၃။ ငါးစီးရှင်နတ်
၂၄။ မင်းတရားနတ်
၂၅။ မောင်ပိုးတူနတ်
၂၆။ အနောက်မိဖုရားနတ်
၂၇။ အောင်ပင်လယ် ဆင်ဖြူရှင်နတ်
၂၈။ ရှင်ကုန်းနတ်
၂၉။ ရွှေနော်ရထာနတ်
၃၀။ မင်းရဲအောင်တင်နတ်
၃၁။ မောင်မင်းဖြူနတ်
၃၂။ ရှင်တော်နတ်
၃၃။ တပင်ရွှေထီးနတ်
၃၄။ မြောက်ဖက် ရှင်မနတ်
၃၅။ တောင်ငူ ရှင်မင်းခေါင်နတ်
၃၆။ သံတော်ခံနတ်
၃၇။ ယွန်းဘုရင်နတ်

ဤ စာရင်းအရ အပြင် ၃၇ မင်းမှာ အနော်ရထာမင်း လက်ထက်က စာရင်းအတိုင်း မဟုတ်တော့ပဲ ပုဂံခေတ် နောက်ပိုင်း၊ ပင်းယ၊ အင်းဝ၊ တောင်ငူခေတ်တို့ကျမှ ထပ်၍ ထပ်၍ ပြောင်းလဲ ဖြည့်စွက်ခြင်းများ ဖြစ်သည်ကို တွေ့ရသည်။ ၁၊ သိကြားနတ်မှ စ၍ ၁၆၊ ညောင်ချင်းအိုနတ် အထိ ၁၆ ဦးမှာ အနော်ရထာမင်းလက်ထက် နတ်များ ဖြစ်ကြသည်။ ၁၇၊ မင်းစည်သူနတ်မှ ၂၂၊ မယ်တော် ရွှေ



မဟာဂိရိနတ်



သုံးပန်လှနတ်

စကားနတ် အထိ ခြောက်ဦးသည် အနော်ရထာ နောက် ပုဂံခေတ်နတ်များ ဖြစ်ကြသည်။ ၂၃၊ ငါးစီးရှင် နတ်သည် ပင်းယခေတ်ကနတ်ဖြစ်သည်။ ၂၄၊ မင်းတရားနတ်မှ ၃၂၊ ရှင်တော်နတ်အထိ ကိုးဦးမှာ အင်းဝခေတ်က နတ်များ ဖြစ်ကြသည်။ ၃၃၊ တပင်ရွှေထီးနတ်မှ ၃၇၊ ယွန်းဘုရင်နတ် အထိ ငါးဦးမှာ တောင်ငူခေတ်နတ်များ ဖြစ်ကြသည်။

ထိုမှတပါး ၁၂၁၈ ခုနှစ် တပို့တွဲလဆန်း ၈ ရက် တနင်္ဂနွေနေ့၊ မန္တလေး ရတနာပုံ ပဌမမြို့တည် နန်းတည် အခါတော်၊ တောခုတ် အခါတော်မှ စ၍ ပနက်စိုက်ထူ အခါတော်၊ မြေသနစ် အခါတော်၊ တိုင်ထူ အခါတော်၊ အုတ်မြစ်စီခင်း အခါတော်၊ နန်းသိမ်း အခါတော်တို့၌ တင်ကြား ပသပူဇော်ရန် ဒိပဲယင်း ဆရာတော်၊ စံကျောင်း ဆရာတော်စသော တံဆိပ်တော်ရ ဆရာတော်ကြီးရှစ်ပါးနှင့် သတိုးမင်းကြီး မဟာမင်းလှကျော်သူ ပုခန်းမြို့စား ဝန်ကြီး၊ သတိုးမင်းကြီး မဟာမင်းလှစည်သူ စသော လူပညာရှိ ပုဂ္ဂိုလ်ကြီး ၁၃ ဦး စီမံထားသော မန္တလေးရွှေမြို့တော်တည် စာတမ်းလာစာရင်းအရ အပြင် ၃၇ မင်း နတ်စာရင်းလည်း ရှိသေး၏။ ထို စာရင်းသည် အထက်တွင် ဖော်ပြခဲ့ပြီးဖြစ်သော စာရင်းနှင့် မတူချေ။ ထိုစာရင်းတွင် သိကြား၊ နှမ



ရှင်နဲမိနတ်

တော်၊ ကျော်စွာ၊ တောင်ငူရှင်မင်းခေါင်တို့ မပါပဲ၊ ယင်းတို့ အစား တောင်ကြီးရှင်၊ မယ်တော်ရွှေအိမ်စီ၊ ဘိုးမင်းကျော်၊ ကိုးကျောင်းတကာတို့ ပါလာသည်။ ကြွင်းသော ၃၃ ပါးတို့ကား တူညီကြသည်။

၁။ သိကြားနတ်သည် မိုးနှင့် မိုးကြိုးကို အစိုးရသည်။ လူတို့ကို ကာကွယ် စောင့်ရှောက်၍ လူတို့၏ ဆင်းရဲချမ်းသာ၊ ကောင်းကျိုး ဆိုးကျိုးကို စီမံ စီရင်သူ ဖြစ်သည်ဟု ဆိုသည်။ ရုပ်တုတွင် အောက်ခံ့ဆင်ရုပ်၊ ဦးခေါင်း

သုံးလုံး ခံထားသည်။ ယင်း အပေါ်က ပဒုမ္မာကြာပွင့်တွင် မတ်ရပ်ထလျက် လက်ျာလက်က ခရုသင်း၊ လက်ဝဲလက်က သားမြီးယပ် ကိုင်ကာ သိကြား အဝတ်တန်ဆာ အစုံနှင့် ရှိသည်။

၂။ မဟာဂိရိနတ်သည် တကောင်းမြို့မှ ပန်းဘဲမောင်တင့်တယ် ဖြစ်သည်။ အင်အားအစွမ်းကြီးမား၍ တကောင်းဘုရင်က စိုးရိမ်သဖြင့် ဖမ်းဆီးရာ ထွက်ပြေးရသည်။ ထိုအခါ ဘုရင်က မောင်တင့်တယ်၏ နှမကို မိဖုရားမြှောက်၍ မောင်တင့်တယ်ကို လှည့်ဖြားခေါ်ယူပြီးလျှင် ဖိုကျင် ထိုးသတ်ရာမှ နတ်ဖြစ်သည်။ နတ်ရုပ်မှာ ဆင်ဖြူခုံတွင် ဘီလူးဆင့်သည်။ ယင်း အပေါ်တွင် မတ်ရပ်ထလျက် မင်းသားတို့၏ အဆောင်အယောင် ဗောင်းနားတောင်းစလွယ်နှင့် ယာလက်က ယပ်၊ ဝဲလက်က ဓား ကိုင်ထားသည်။

၃။ နှမတော် နတ်သည် မောင်တင့်တယ်၏ နှမ ဖြစ်သည်။ မောင်တင့်တယ်ကို ဖိုကျင်ထိုးသတ်ရာ၌ အစ်ကိုနှင့် အတူ မီးပုံတွင် ဆင်း၍သေရာမှ နတ်ဖြစ်သည်။ နတ်ရုပ်မှာ ဆင်နက်မ အရုပ်ခုံတွင် ဘီလူးရုပ် ဆင့်သည်။ ယင်း အပေါ်တွင် မတ်ရပ်ထလျက် ယာလက်ရှိ လက်မ လက်ညှိုးက ကြာဇသီးကိုင်၍ ရင်ကိုပိုက်နေဟန်၊ ဝဲလက်က ကိုယ်ကို မြှောင်လျက်ချထားဟန် ဖြစ်သည်။

၄။ ရွှေနပေနတ်သည် သရက်မြို့ အနောက်ဖက်တွင် ရှိသော မင်းတုံးမြို့သူ ဖြစ်သည်။ နဂါးနှင့် ညားပြီးနောက် လင်ပစ်သွားသဖြင့် စိတ္တဇနှင့် သေရာမှ နတ်ဖြစ်သည်ဟု ဆိုသည်။ အချို့က ရွှေနပေသည် နဂါးမျိုးဖြစ်၍ မောင်တင့်တယ်နှင့် ပြေးလွှားနေရစဉ်တွင် ညားသည်။ ဥနှစ်လုံး မွေးဖွားပြီး သေသည်ဟု ဆိုသည်။ တမျိုးကား ရွှေနပေသည် တောလုလင်တယောက်နှင့် ညားပြီးလျှင် လင်ပစ်သွားသဖြင့် စိတ္တဇနှင့် သေသည်ဟုဆိုသည်။ နတ်ရုပ်မှာ ကြာခုံပေါ်တွင် မတ်ရပ်ထလျက် ဦးခေါင်းတွင် နဂါး လည်ပေါ်စည်းပုံ ဆောင်း၊ ဆူး နားတောင်း ပန်ထားသည်။ ယာလက်က ရင်ကိုပိုက်၍ ဝဲလက်က ကိုယ်မှာ မြှောင်၍ ချထားသည်။

၅။ သုံးပန်လှနတ်မှာ မောင်တင့်တယ်၏ နှမအထွေး၊ ပုပ္ပါး ရွှေမျက်နှာခေါ် နှမတော်ကြီး၏ ညီမ၊ တကောင်းမြို့သူ ဖြစ်သည်။ မောင်တင့်တယ်တို့အမှု ဖြစ်သည့်ကာလ သုံးပန်လှသည် ရခိုင်မြို့သို့ ရောက်ရှိ၊ ရခိုင်မင်းက သမီးပြု၍ မွေးထားပြီးလျှင် ဥက္ကလာပမင်း သမိန်ထောသို့ ဆက်၍ မိဖုရား ဖြစ်သည်တွင် သမီးရှင်နဲမိကို မြင်သည်။ ထိုနောက် တကောင်းမြို့ရှိ ဆွေမျိုးတို့ကို တွေ့လို၍ ဥက္ကလာပမြို့က ဆန်တက်လာရာ အင်းဝမြို့ အနောက်၊ တပယ် ထောင့်ရစ်ရွာသို့ရောက်လျှင် ရုတ်တရက် ဖျား၍ သေရာမှ နတ်ဖြစ်သည်။ နှစ်နှစ်သမီးဖျှရှိသော ရှင်နဲမိသည်လည်း မယ်တော်ကို လွမ်းဆွတ်သည်နှင့် ထောင့်ရစ်ရွာတွင်ပင် သေ၍ နတ်ဖြစ်သည်။ တနည်းကား ဟံသာဝတီမြို့၊ ကန်စွမ်းနိမ့်ရွာသူ ဖြစ်သည်။ တနေ့သုံးကြိမ် သုံးပန်လှသည် ဖြစ်၍ ဒွတ္တပေါင် မင်းကြီးကြားသဖြင့် မိဖုရားမြှောက်ရန် မင်းချင်းတယောက်အား လွှတ်၍ ခေါ်စေ၏။ လမ်းတွင် မင်းချင်းနှင့် သုံးပန်လှတို့ ရည်ငံကြရာ နန်းတော်တံခါးဝသို့ ရောက်ရာတွင် သုံးပန်လှအား ထားခဲ့ပြီးသော် မင်းချင်းတယောက်တည်း ဝင်၍ သုံးပန်လှသည် အလွန်လှပသော်လည်း ကိုယ်လက် အလွန်ကြီးမားသောကြောင့် မြို့တံခါး မဆန့်၍ မသွင်းယူနိုင်ကြောင်း လိမ်လည်တင်လျှောက်လေ၏။ မင်းကြီး ယုံကြည်သဖြင့် မြို့ပြင်တွင် နေစေ၏။ နောက်၌ မင်းကြီးကလည်း မသိမ်းပိုက်၊ မင်းချင်းကလည်း ပစ်ထားသောကြောင့် စိတ္တဇနှင့် သေရာမှ နတ်ဖြစ်သည် ဆိုသည်။ မသေမီ သမီး တယောက် ဖွားမြင်၏။ ထိုသမီးကား ရှင်နဲမိ ပင်တည်း။ နတ်ရုပ်မှာ ဆင်ရုပ်ခံ ဘီလူးခုံတွင် မတ်ရပ်ထလျက်၊ ဆံကျစ်မြိတ်ရစ် ထုံးကာ ယာလက်က ရင်ကိုမ၍ ဝဲလက်မှာ ကိုယ်မှာ မြှောင်ချထားသည်။

၆။ ရှင်နဲမိသည် အထက်ပါ သုံးပန်လှ၏သမီးဖြစ်သည်။ နတ်ရုပ်မှာ ကြာခံပလ္လင်ပေါ်တွင် မတ်ရပ်ထလျက် လက်ကောက်၊ ပုတီး၊ စည်းပုံနှင့် လက်နှစ်ဖက်ကို လွှဲချဟန် ခလေးရုပ် ထုလုပ်ရသည်။

၇။ တောင်မကြီး ရှင်ညိုနတ်နှင့် ၈။ မြောက် မင်းရှင်ဖြူ နတ်များသည် ရွှေနပေ၏ သားများဖြစ်သည်။ ဒွတ္တပေါင် မင်းကြီးထံတွင် ခစားနေရာ ယင်းတို့၏ အစွမ်းသတ္တိကို မင်းကြီးသိရှိသဖြင့် မင်းကြီးစိုးရိမ်သောကြောင့် ညီနောင် နှစ်ယောက်ကို လက်ဓွေ လက်ပန်း ထိုးကြစေသည်။ နှစ်ယောက်စလုံး ရင်ကွဲ၍ သေရာမှ နတ်ဖြစ်ကြသည်ဟု ဆိုသည်။ တောင်မကြီး ရှင်ညိုနတ်ရုပ်မှာ ကြာခံခုံ၊ လက်ဝဲယာသုံးဖက်စီ၊ ပေါင်း လက်ခြောက်ဖက်ရှိ၏။ အထက် ဝဲယာ လက်နှစ်ဖက်က လက်အုပ်ချီ၍ ရင်မှာ ကပ်ထားသည်။ ကျန် ဝဲလက် နှစ်ဖက်က တုတ်နှင့်သိုင်း၊ ယာလက် နှစ်ဖက်က ဓားနှင့် လှံ ကိုင်ထားသည်။ ဦးခေါင်းတွင် မောက်တိုဆောင်း၍ စစ်ဝတ်တန်ဆာ အပြည့်အစုံနှင့် ရှိသည်။ မြောက် မင်းရှင်ဖြူ နတ်ရုပ်လည်း ထိုအတူပင် လက်ခြောက်ဖက်နှင့် ရှိသည်။

၉။ ထီးဖြူဆောင်း နတ်သည် ပုဂံ နော်ရထာမင်း၏ ခမည်းတော် ကွမ်းဆော်မင်း ( ၃၂၆–၃၄၇ ) ဖြစ်သည်။ ကျည်းစိုးနှင့် စုက္ကတေးမင်းတို့က ပုန်ကန် လှည့်ဖြား၍ ရဟန်းပြုစေသဖြင့် ရဟန်းအဖြစ်နှင့် အနိစ္စရောက်ရာမှ နတ်ဖြစ်သည်ဟု ဆိုသည်။ နတ်ရုပ်မှာ ပလ္လင်ခုံပြန့်ပေါ်တွင် တင်ပျဉ်ခွေလျက်၊ သင်္ကန်းဒုကုဋ် တင်ဟန်နှင့် မိုးကြိုးသွားပုံ ဒေါက်ချာ ဆောင်းထားသည်။ ယာ လက်က



တောင်မကြီး ရှင်ညိုနတ်

သရဘတ်ကိုင်၍ (ယပ်ကိုင်၍) ဝဲလက်က ဒူးပေါ်ထောက်ထားသည်။

၁၀။ ထီးဖြူဆောင်း မယ်တော်နတ်သည် ကွမ်းဆော်မင်း၏ မယ်တော်ဖြစ်သည်။ နတ်ရုပ်မှာ ကြာခံခုံပေါ်တွင် ကျုံ့ကျုံ့ထိုင်၍၊ ယာလက်က ဝမ်းကိုပိုက်၍၊ ဝဲလက်က ပေါင်ပေါ်ထောက်ထားဟန် ဆံထုံး၊ ဆံမြိတ်၊ ဆံထိုးနှင့်ရှိသည်။

၁၁။ ပရိမ္မရှင် မင်းခေါင်နတ်သည် ပဋိသန္ဓေ ကိုးလနှင့်ပါလာသော ကွမ်းဆော်မင်း၏ မိဖုရားတဦးမှ မွေးသည့် ကျည်းစိုးမင်း(၃၄၈–၃၅၄)ဖြစ်သည်။ ကွမ်းဆော်မင်းသည် ကျည်းစိုးအား သားအရင်းကဲ့သို့ သဘောထားကာ ပရိမ္မရွာကို အပိုင်စား ပေးသနားတော်မူခဲ့သည်။ ထိုနောက် ကျည်းစိုး မင်းဖြစ်သောအခါ တနေ့၌ တောကစား ထွက်ခဲ့၏။ တောတွင် သမင်ပစ်မည်ဟု လေးရွယ်နေစဉ် •မုဆိုးတဦးက ထိုသမင်ကိုပင် ပစ်ရာ ကျည်းစိုးမင်းကို လေးမှန်၍ အနိစ္စရောက်ရာမှ ပရိမ္မရှင် မင်းခေါင်နတ်ဟု တွင်သည်။ နတ်ရုပ်မှာ အောက်ပလ္လင်ပေါ်တွင် တင်ပျဉ်ခွေ၍ ဗောင်းသရဖူ ဆောင်းလျက်၊ ယာလက်က ဒူးလေး ထမ်းဟန်၊ ဝဲလက်က ဝဲ ဒူးစွန်းကို ထောက်ထားဟန် ရှိသည်။

၁၂။ ရွှေဖျဉ်းကြီးနှင့် ၁၃။ ရွှေဖျဉ်းငယ် နတ်တို့သည် ပုဂံအနော်ရထာမင်း လက်ထက် (၄၀၆–၄၃၉) သထုံမြို့မှ ကုလားဗျတ္တနှင့် ပုပ္ပါး ပန်းစားဘီလူးမတို့၏ သားများဖြစ်သည်။ တောင်ပြုံးအရပ်တွင် အနော်ရထာမင်း ဘုရားတည်ရာ၌ အုတ်နှစ်ချပ် လစ်လပ်သည်ဆို၍ ဘုရင်က ကွပ်မျက်ရာမှ နတ်ဖြစ်ကြသည်ဟု ဆိုသည်။ ရွှေဖျဉ်းကြီး နတ်ရုပ်မှာ အောက်ခံဇွန်းရိုး ပလ္လင်ပြန့်ပေါ်တွင် လကျာဒူးထောင်၍ လက်ဝဲ ဒူးလှဲပြီးလျှင်၊ ယာလက်က ဓားထမ်းကာ ဝဲလက်က ပေါင်ကို ထောက်ထားသည်။ ဗောင်း နားတောင်း လက်ကောက်တန်ဆာနှင့် ရှိသည်။ ရွှေဖျဉ်းငယ် အတွက်လည်း ပုံအနည်းငယ် ယိမ်းသည်မှတပါး ရွှေဖျဉ်းကြီးအတိုင်း ထုလုပ်ရသည်။



ရွှေဖျဉ်းကြီးနတ်

၁၄။ မန္တလေး ဘိုးတော်နတ်သည် ရွှေဖျဉ်းညီနောင်ကို ဘုရင့်အမိန့်အရ မွေးထားရသူ ပုဏ္ဏားသား ဖြစ်သည်။ ညီနောင်နှစ်ယောက် ရာဇဝတ်သင့်ရာတွင် ရော၍ ကွပ်မျက်ခံရသည်။ ရွှေဖျဉ်းညီနောင်တို့က အဘိုးဟု ခေါ်ရာမှ ဘိုးတော်ဟု တွင်သည်။ မန္တလေးအရပ်တွင် အသတ်ခံရ၍ မန္တလေး ဘိုးတော်ဟု ခေါ်သည်။ နတ်ရုပ်မှာ အောက်ခံ ပလ္လင်ခုံတွင် မတ်ရပ်ထလျက် ဖောင်းဆင်ပြီးလျှင် ဝဲလက်က ဓားထမ်းထားသည်။ ယာလက်မနှင့် လက်ညှိုး လက်ဖစ် ပြဟန်ထုလုပ်ထားသည်။ ၎င်းမှာ "လက်တဆစ်မျှ အပြစ်မရှိ" ဟု ဆိုလိုသည်။

၁၅။ ရှင်ကွနတ်သည် မန္တလေး ဘိုးတော်၏ နှမဖြစ်သည်။ ရွှေဖျဉ်းညီနောင် အရေးတွင် မန္တလေးဘိုးတော်နှင့် အတူရော၍ အသတ်ခံရရာမှ နတ်ဖြစ်သည် ဟူ၏။ နတ်ရုပ်မှာ ကြာခံခုံတွင် ဆံထုံးလုလင်ကြည့်၊ ဆံထိုး ဆံကျင်အစုံနှင့် လက်နှစ်ဖက်ကို တွဲလွဲချကာ ကွ၍သွားဟန် ထုလုပ်ထားသည်။

၁၆။ ညောင်ချင်းအိုနတ်သည် သထုံ မနူဟာမင်းနှင့် အတူ သုံ့ပန်းအဖြစ် ပုဂံသို့ ပါလာသော မွန်မင်းသားတပါး ဖြစ်သည်။ ပုဂံနေ၍ရထာမင်း လက်ထက် ကုဋ္ဌနူနာနှင့်



မင်းစည်သူနတ်



• ရွှေဖျဉ်းငယ်နတ်

ပုဂံတွင် အနိစ္စရောက်ရာမှ နတ်ဖြစ်သည်ဟု ဆိုသည်။ နတ်ရုပ်မှာ အောက်ခုံလေးထောင့်၊ မတ်ရပ်ထလျက်၊ လက်ခြေမျှားမှာ လူနူအဟန်၊ ယာလက် တောင်ဝှေးကိုင်၊ ဝဲလက် အထက် မြှောက်ထားဟန်၊ သျှောင်ထုံးနှင့် ထုလုပ်ရသည်။

၁၇။ မင်းစည်သူ နတ်သည် ပုဂံ အလောင်းစည်သူ မင်းကြီး(၄၇၄–၅၂၉)ဖြစ်သည်။ သားတော် ကုလားကျ မင်းခေါ် နရသူမင်းက မျက်နှာတော်ကို အဝတ်ပုဆိုးဖြင့် အုပ်ဖိ၍ သတ်ရာမှ နတ်ဖြစ်သည်ဟု ဆိုသည်။ နတ်ရုပ်မှာ အောက်ခုံပလ္လင်၊ ယာ ဒူးထောက် ဝဲ ဒူးချ၊ ယာဒူးပေါ်တွင် ယာ လက်ရုံးတင်၍ လက်ညှိုးထိုးဟန်၊ ဝဲ လက်က ဒူးစွန်းကို ထောက်လျက်၊ ဖောင်း စလွယ် နားတောင်း ရွှေဘယက် နောက်ဘယက်နှင့် ထုလုပ်ရသည်။

၁၈။ မင်းသား ဒန်းမောင်ရှင်နတ်သည် ပုဂံ အလောင်းစည်သူမင်း၏ သားတော်ကြီး မင်းရှင်စော၏ သားဖြစ်သည်။ သာမဏေအဖြစ်ဖြင့် ဒန်းစီးရာတွင် ဒန်းပေါ်က ကျ၍ အနိစ္စရောက်ရာမှ နတ်ဖြစ်သည်။ နတ်ရုပ်မှာ ပလ္လင်ခုံ ပြန့် တင်ပျဉ်ခွေ၊ ယာလက်က စောင်းကိုပိုက်တီး၍ ဝဲလက်က ကြိုးကို ထောက်ဟန်၊ ဖောင်း စလွယ်နှင့် ထုလုပ်ရသည်။



မင်းသားဒန်းမောင်ရှင်နတ်

၁၉။ မင်းကျော်စွာနတ် (၉၆—၁၁၆)နှင့် စပ်လျဉ်း၍ ကျော်စွာ သုံးဦးရှိနေသည်။ ပုဂံသိန်းခွန်၏ သားဟူ၍ရင်း၊ ပုဂံ အလောင်းစည်သူမင်း (၄၇၄—၅၂၉)၏ အမတ်တဦးဟူ၍ရင်း၊ အင်းဝ ပဥ္စမ မင်းခေါင်၏သားတော် မင်းရဲကျော်စွာ ဟူ၍ရင်း ဆိုသည်။ ပဥ္စမ အဆို၌ အစ်ကို စည်သူက သတ်၍ သေသည်ဟူ၍ရင်း၊ ဒုတိယ အဆို၌ ပုပ္ပါးသူအရက်သည် မဘိုမယ်နှင့် အကြောင်းပါသည်။ ကြက်၊ အရက်၊ ပွဲများနှင့်သာ ပျော်ပါးနေ၍ သေသည်ဟူ၍ရင်း၊ တတိယအဆိုအရ မွန်တို့နှင့် တိုက်ရသော ဒလစစ်ပွဲတွင် ကျဆုံးသည် ဟူ၍ရင်း ဆိုလေသည်။ နတ်ရုပ်မှာ မြင်းစီးလျက် ယာလက်က ကြိမ်ကိုင်၍ ဝဲလက်က မြင်းဇက်ကို ကိုင်ထားသည်။ သျှောင်ထုံးနှင့် ထုလုပ်ရသည်။

၂၀။ အောင်စွာမကြီး နတ်သည် ပုဂံ နရပတိစည်သူမင်း(၅၃၆—၅၇၃)၏ အမတ် ငအောင်စွာ ဖြစ်သည်။ နရပတိ စည်သူက နောင်တော် မင်းယဉ်နရသိခ်ကို သွား၍ လုပ်ကြံချေ။ အောင်မြင်လျှင် မိဖုရားတော်တယောက်နှင့် ပေးစားမည်ဟု ကတိပေးသည်။ အောင်မြင်သောအခါ၌ကား ကတိအတိုင်း မပေးစား၍“ထွီ”ဟုဆိုမိသည်နှင့်အကွပ်မျက်ခံရသည်တွင် နတ်ဖြစ်သည်ဟူ၏။ နတ်ရုပ်မှာ မြင်းစီးလျက်၊ လက်ဝဲဇက်ကိုင်၊ လကျ်ာခားထမ်း၊ ခေါင်းထုပ်ဖောင်းနှင့် ရှိသည်။

၂၁။ ရွှေစစ်သင် နတ်သည် ပုဂံ စောမွန်နစ်မင်း (၆၇၇-၇၃၀)၏သားတော်ဖြစ်သည်။ ခမည်းတော်က စစ်ချီစေရာတွင် ပေါ့လျော့စွာ ကြက်တိုက် ကစားနေသည်နှင့် ခမည်းတော်က ခြေထိပ်ခတ်ထားရာတွင် အနိစ္စရောက်သည်မှ နတ်ဖြစ်သည်ဟူ၏။ နတ်ရုပ်မှာ ဇွန်းရိုးပလ္လင်ခံ၊ ယာဒူးထောင်၊ ဝဲ ဒူးလှဲ၊ ယာလက် ခားထမ်း၊ ဝဲလက်က ဒူးပေါ်အုပ်၊ ဖောင်း စလွယ်၊ ရွှေဘယက် နောက်ဘယက်နှင့် ထုလုပ်ရသည်။

၂၂။ မယ်တော် ရွှေစကားနတ်သည် ပုဂံ စောမွန်နစ်၏ မိဖုရား၊ ရွှေစစ်သင်၏ မယ်တော်ဖြစ်သည်။ သားတော် ရွှေစစ်သင် သေဆုံးရာ၌ လွမ်းဆွတ်ကြေကွဲ၍ အနိစ္စရောက်ရာမှ နတ်ဖြစ်သည်ဟူ၏။နတ်ရုပ်မှာ ကြာခံခုံ၊ ကျုံ့ကျုံ့ထိုင်၊ ဝဲလက် ပေါင်ကိုထောက်၊ ယာလက်က ရင်ကိုပိုက်ဟန် ထုလုပ်ရသည်။

၂၃။ ငါးစီးရှင်နတ်သည် ပင်းယ သီဟသူမင်း၏ သားတော် ဖြစ်သည်။ မင်းဖြစ်၍ ကိုးနှစ် အရှိတွင် ရုတ်တရက် ဖျား၍ အနိစ္စရောက်ရာမှ နတ်ဖြစ်သည်ဟု ဆိုသည်။ ဤငါးစီးရှင် နတ်ကား ယခင် ပုဂံခေတ် ငါးစီးရှင်နတ်၏ နေရာတွင် အစားထိုးသော နတ်ဖြစ်သည်။ နတ်ရုပ်မှာ ဆင်ဖြူရုပ်ကိုယ်တခုလျှင် ဦးခေါင်းငါးလုံး၊ တလုံးမှာ ပေါက်ဆင်မျိုး၊ တလုံးမှာ ဟိုင်းဆင်မျိုး၊ တလုံးမှာ ဟံဆင်မျိုး၊ တလုံးမှာ တံဆင်မျိုး၊ တလုံးမှာ တည်ဆင်မျိုး ထုလုပ်၍ ဆင်ကျောက်ကုန်းပေါ်မှာ ကြာပွင့်၊ ကြာပေါ်တွင် မှန်စီရွှေချ က တင်သည်။ ယင်းအပေါ်တွင် ဖောင်းသရဖူ ဆင်၍ နတ်ရုပ်တင်ထားသည်။ကြာပွင့်အနား ထီးဖြူလေးစင်း စိုက်



မင်းကျော်စွာနတ်



အောင်စွာမကြီးနတ်

ထားသည်။ ဆင်ဖြူအနားတွင် ရွှေဖြူ တာလေးလုံး တည်ထားသည်။

၂၄။ မင်းတရားနတ်သည် မင်းကြီးစွာစော်ကဲ၏ သားတော်အကြီး၊ အင်းဝ ပဉ္စမ မင်းခေါင်၏ နောင်တော် ဆင်ဖြူရှင် တရဖျားမင်း(၇၆၂–၇၆၃)ဖြစ်သည်။ မင်းဖြစ်၍ ငါးလမျှကြာသော အခါ တောကစားရာတွင် ဇော်ဂျီနှင့်တွေ့၍ ဇော်ဂျီ၏ တန်ခိုးဖြင့် နတ်သမီးနှင့် ပေါင်းဖော်ပြီးသည့် နောက်၌ စိတ်ဖောက်ပြန်နေသော ဟူ၏။ ထိုစဉ်အထိန်းတော် ငနောက်ဆံ လုပ်ကြံ၍ နန်းစံ ခုနစ်လမျှနှင့် နတ်ရွာစံရာမှ နတ်ဖြစ်သည်ဟု ဆိုသည်။နတ်ရုပ်မှာ ဇွန်းရိုးခံ ပလ္လင်၊ တင်ပျဉ်ခွေ၊ မင်းတန်ဆာအစုံ၊ ယာလက် ယပ်ကိုင်၊ ဝဲလက် ဒူးအုပ်ထားသည်။

၂၅။ မောင်ပိုးတူသည် ပင်းယမြို့သား လက်ဖက်ကုန်သည် ဖြစ်သည်။ အင်းဝ ပဉ္စမ မင်းခေါင် ( ၇၆၃–၇၈၃ ) လက်ထက်၊ ဝန်တင်နှင့် မိုးမိဘ်၊ သီပေါတို့သို့ အရောင်းအဝယ် တက်၍ အပြန်တွင် လက်ဖက်ချလာရာ လမ်းတွင် ကျားခဲ၍ သေရာမှ နတ်ဖြစ်သည်ဟူ၏။နတ်ရုပ်မှာ ကျားရုပ်ပေါ်တွင် စီး၍ ယာလက်က ကြိမ်ကိုင်၊ ဝဲလက်က ပေါင်ကိုထောက်၊ ဘွဲ့ချောင်ထိုးနှင့် ထုလုပ်ရသည်။ ကုန်သည်တို့၏ အစောင့်နတ် ဖြစ်သည်။

၂၆။ အနောက်မိဖုရားနတ်သည် အင်းဝ ပဉ္စမ မင်းခေါင်၏ အနောက်ဆောင် မိဖုရားဖြစ်သည်။ အင်းဝမြို့ အနောက်ဝါခင်းသို့ ကိုယ်လုပ်မောင်းမတို့နှင့် အပျော်အပါး သွားရာတွင် မင်းကျော်စွာနတ် မြင်းစီးလာသည်ကို တွေ့ရသဖြင့် မေ့မျောသွားပြီးလျှင် ကံကုန်ရာမှနတ်ဖြစ်သည်ဟူ၏။ နတ်ရုပ်မှာ ကြာခုံ၊ ကျုံကျုံထိုင်၊ဆံထုံး၊ဆံမြိတ်ကွင်း၊ ဆံထိုး ဆံကျင်နှင့် သားယယ်ပိုက်ပွေ့ နို့တိုက်နေဟန် ထုရသည်။

၂၇။ အောင်ပင်လယ် ဆင်ဖြူရှင်နတ်သည် အင်းဝ ပဉ္စမ မင်းခေါင်၏ သားတော် သီဟသူ မင်း (၇၈၃–၇၈၇) ဖြစ်သည်။ အနန်းဘောင်စော်ဘွား တိုက်လာရာတွင် အောင်ပင်လယ်၌ မြားသင့်၍ ဆင်ဦးတွင် အနိစ္စရောက်ရာမှ နတ်ဖြစ်သည်ဟူ၏။ နတ်ရုပ်မှာ ဆင်ဖြူရုပ်ပေါ်တွင် ပလ္လင်တင်၍ ပလ္လင်ပေါ်တွင် တင်ပျဉ်ခွေ၊ လကျာ်ယပ်ကိုင်၊လက်ဝဲဒူးတင်၊ ဖောင်း နားတောင်း သရဖူအစုံ၊ ဆင် ရှေ့ဦးစီးက ချွန်းကိုင်၍ ဝပ်တွားနေဟန်၊ နောက်ပဲ့စီးက ခါးထမ်းလျက်နေဟန် ထုလုပ်ရသည်။

၂၈။ ရှင်ကုန်းနတ်သည် အောင်ပင်လယ် ဆင်ဖြူရှင်နတ်ဖြစ်သော အင်းဝ သီဟသူမင်း၏ ကိုယ်လုပ်တော်ဖြစ်သည်။ အောင်ပင်လယ်မှ အပြန် အင်းဝရောက်လျှင် သေဆုံးရာမှ နတ်ဖြစ်သည်ဟူ၏။ နတ်ရုပ်မှာ ကြာခုံ၊ ဆံထုံးလုလင်ကြည့်၊ ဆံထိုး ဆံကျင်အစုံနှင့် လက်နှစ်ဖက်ကို တွဲလွဲချကာ၊ ကုန်း၍ သွားဟန် ထုလုပ်ရသည်။



ငါးစီးရှင်နတ်

၂၉။ ရွှေနော်ရထာနတ်သည် အင်းဝ ဒုတိယမင်းခေါင်၏ မြေးဖြစ်သည်။ ဘထွေးတော် ရွှေနန်းကြော့ရှင်(၈၆၃–၈၈၈)လက်ထက် ရွှေနော်ရထာ၏ကျွန် ငသောကြာ ပုန်စားလေသောကြောင့် ရွှေနော်ရထာကို ရေမှာ ဖျောက်ဖျက်လိုက်ရာမှ နတ်ဖြစ်သည်ဟူ၏။ နတ်ရုပ်မှာ ငှန်းရိုးခုံပလ္လင်၊ ယာ ဒူးထောက်၊ ဝဲ ဒူးလှဲ၊ ယာလက်က ဗလီတံကိုင်၊ ဝဲ လက်က ဗလီလုံးကိုင်ဟန် ထုလုပ်ရသည်။

၃၀။ မင်းရဲအောင်တင် နတ်သည် အင်းဝ အနောက်ဖက်လွန် မင်း၏ သားတော် သာလွန်မင်း(၉၉၀–၁၀၁၀)၏ သားမက်တော် ဖြစ်သည်။ ဘိန်းဘင်းအရက် ကြူး၍ သေရာမှ နတ်ဖြစ်သည်ဟူ၏။ နတ်ရုပ်မှာ အောက်ခုံကြာခုံ၊ တင်ပျဉ်ခွေ၊ သျှောင်နှင့် စောင်းပိုက်နေဟန် ထုလုပ်ရသည်။

၃၁။ မောင်မင်းဖြူ နတ်သည် အင်းဝ မင်းတပါး၏ သားတော်ဖြစ်သည်။ ဘိန်းဘင်းအရက် ကြူး၍ သေရာမှ နတ်ဖြစ်သည် ဆိုသည်။ နတ်ရုပ်မှာ ကြာခုံ၊ တင်ပျဉ်ခွေ၊ နဖောင်းထုပ်ပေါင်း၍ ငြင်းမှုတ်နေဟန် ထုလုပ်ရသည်။

၃၂။ ရှင်တော် နတ်သည်လည်း အင်းဝ မင်းတပါး၏ သားတော်ဖြစ်သည်။ ရှင်သာမဏေ ဘဝတွင် မြွေခဲ၍ သေရာမှ နတ်ဖြစ်သည်ဟူ၏။နတ်ရုပ်မှာ အောက်ခံလေးထောင့်၊ မတ်ရပ်၊ ဦးထုပ်ဆောင်း၊ သင်္ကန်းလေးဖက်တင်၊ ဝဲလက် ပုတီးကိုင်ဟန် ထုလုပ်ရသည်။

၃၃။ တပင်ရွှေထီးနတ်သည် တောင်ငူဘုရင် မင်းတရားရွှေထီး (၈၉၂–၉၁၂)ဖြစ်သည်။ စစ်တောင်းစား သမိန်စောထွတ်၏ ညီအလတ် လက်ဝဲခါးမှူးက ဓားဖြင့် လုပ်ကြံ၍ ခေါင်းပြတ် အနိစ္စရောက်ရာမှ နတ်ဖြစ်သည်ဟူ၏။ နတ်ရုပ်မှာ လေးထောင့်ခုံ ပလ္လင်၊ တင်ပျဉ်ခွေ၊ ဖောင်း သရဖူ၊ လက်ျာလက်က ဓား၊ လက်ဝဲလက်က ဒူးအုပ်ဟန် ထုလုပ်ရသည်။

၃၄။ မြောက်ဖက်ရှင်မနတ်သည် တောင်ငူတပင်ရွှေထီး၏ အထိန်းတော် မင်းရဲသိခ်သူ၏ နောက်ဇနီး၊ မြောက်ဖက် ကတူးရွာသူ ဖြစ်သည်။ မီးဖွားရန် မိဖရပ်ရွာသို့ အပြန်တွင် စစ်ကိုင်းမြို့ အနောက်တွင် သားဖွားသောကြောင့် အနိစ္စရောက်ရာမှ နတ်ဖြစ်သည်ဟူ၏။ သားမှာ အသက်ရှင်သည်။ နတ်ရုပ်မှာ ကြာခုံ၊ ကျုံ့ကျုံ့ထိုင်၊ လက်ျာက ရင်ကို ပိုက်ပွေ့ဟန်၊ လက်ဝဲက ဒူးစွန်းကိုထောက်၊ ဆံထိုး၊ မြိတ်ကွင်း ဆံထုံးနှင့် ထုလုပ်ရသည်။

၃၅။ တောင်ငူ ရှင်မင်းခေါင်နတ်သည် မြောက်ဖက်ရှင်မနှင့် မင်းရဲသိခ်သူတို့၏ သားဖြစ်သည်။ တောင်ငူတွင် မင်းခေါင်အမည်နှင့် မင်းပြုသည်။ (၉၁၄–၉၄၆)သေးဝမ်းဆင်းသဖြင့် ကုသရန် နန်းတော်မှအထွက် ကြက်သွန်ခင်းတခုကို အဖြတ်တွင် ကြက်သွန်နံ့ရသည်နှင့် ရုတ်တရက် ကံကုန်တော်မူရာမှ နတ်ဖြစ်သည်ဟူ၏။ နတ်ရုပ်မှာ ငှန်းရိုးခုံ ပလ္လင်၊ တင်ပျဉ်ခွေ ဖောင်း နားတောင်းအစုံ၊ လက်ျာ ယပ်ကိုင်၊ လက်ဝဲ ဒူးအုပ်ဟန် ထုလုပ်ရသည်။

၃၆။ သံတော်ခံနတ်သည် တောင်ငူဘုရင် မင်းခေါင်၏ သံတော်ခံရဲဖျား ဆိုသူဖြစ်သည်။ မြေတူးမြို့အနီးတောအရပ်သို့ ဘုရင်က ပန်းဆွတ်ပန်းခူးရန်စေလွှတ်ရာတွင် ငှက်သင့်၍ သေရာမှ နတ်ဖြစ်သည်ဟူ၏။ တနည်းကား ဘုရင်က ညဥ့်အခါ နန်းတော်အတွင်း မြတ်လေးပန်းခြုံမှ ပန်းဆွတ်စေသည်တွင် မြွေခဲ၍ သေသည်ဟု ဆို၏။ နတ်ရုပ်မှာ ကြာခုံတွင်ထိုင်လျက်၊ လက်ျာက ယပ်၊ လက်ဝဲက ဒူးမှာအုပ်၍ ခေါင်းမှာ မြစ်ညွန့်ဖောင်း နားတောင်းနှင့် ထုလုပ်ရသည်။

၃၇။ ယွန်းဘုရင် နတ်သည် ဇင်းမယ်ဘုရင် ဖြစ်သည်။ ၉၂၁ ခုနှစ်တွင် ဟံသာဝတီ ဆင်ဖြူများရှင် ဘုရင့်နောင်သည် ဇင်းမယ်ကို လုပ်ကြံရာမှ ဖမ်းယူခဲ့၍ ခြီးမြှောက်ထားရာ သွေးဝမ်းရောဂါ ကပ်ရောက်ရင်း အနိစ္စ ရောက်ရာမှ နတ်ဖြစ်သည် ဟူ၏။ နတ်ရုပ်မှာ ပလ္လင်ခုံ၊ လက်ျာ ဒူးထောင်၊ လက်ဝဲ ဒူးလှဲ၊ ယာလက်က ကြံဆစ် သိုင်းတုတ်ကို ထမ်း၊ ဝဲလက်က လက်ဝဲပေါင်ကို ထောက်၊ ခေါင်းမှာ မြစ်ညွန့်ဖောင်း နားတောင်းနှင့် ထုလုပ်ရသည်။

အထက်ပါ ၃၇ မင်း နတ်များအနက် သိကြားနတ်ကို ချန်လှပ်၍ ကျန် ၃၆ မင်း နတ်များကို အောက်ပါအတိုင်း ခွဲပြနိုင်သည်။

**အမျိုးအနွယ်**

| | | |
|---|---|---|
| ဘုရင်နှင့် မင်းများ | ၉ | (ယွန်းဘုရင် အပါအဝင်) |
| မိဖုရား | ၄ | |
| မင်းသား မင်းနွယ် | ၈ | (သထုံ မနူဟာမင်းနွယ် |
| အမတ်နှင့် မင်းမှုထမ်း | ၁၁ | အပါအဝင်) |
| ကုန်သည် ဆင်းရဲသား | ၄ | |
| | ၃၆ | |

**ကျား၊ မ**

| | | |
|---|---|---|
| ယောကျ်ား | ၂၆ | ၃၆ |
| မိန်းမ | ၁၀ | |

**သေဆုံးပုံ**

ကျားကိုက်၊ မြွေခဲ၊ မီးတိုက်၊ ကွပ်မျက်၊ စိတ္တဇ စသော

| | | |
|---|---|---|
| အသေဆိုး | ၂၂ | ၃၆ |
| အဖျား | ၁၁ | |
| ဘိန်းဘင်းအရက် | ၂ | |
| နူနာ | ၁ | |

**ရဟန်း၊ ရှင်၊ လူ**

| | | |
|---|---|---|
| ရဟန်း၊ ရှင် | ၃ | ၃၆ |
| လူ | ၃၃ | |

ဤစာရင်းအရ ၃၇ မင်း နတ်များသည် မြန်မာနိုင်ငံ အထက်ပိုင်း ပုဂံ၊ ပင်းယ၊ အင်းဝနှင့် တောင်ငူခေတ်က

နတ်မှားသာဖြစ်ကြောင်း တွေ့ရသည်။ ရခိုင်ပြည်နှင့် မွန်ပြည်တို့ ဖက်မှ နတ်များ လုံးလုံးမပါချေ။ သောင်ချင်းအိုနတ်မှာ သထုံပြည် မနူဟာအနွယ် မင်းသားတပါး ဖြစ်သော်လည်း ပုဂံတွင် အနိစ္စရောက်ရာမှ နတ်ဖြစ်သဖြင့် ပုဂံခေတ်နတ်ဖြစ်သည်။ ဇင်းမယ်ဘုရင်မှာလည်း မြန်မာပိုင်နက်တွင် အနိစ္စရောက်ရာမှ တောင်ငူခေတ် နတ်ဖြစ်သည်။ အောက်မြန်မာနိုင်ငံတွင် အထူးကျော်ကြား ယုံကြည် ကိုးကွယ်နေကြသော ရေငံပိုင် ဦးရှင်ကြီးနတ်သည် ၃၇ မင်းတွင် မပါချေ။ မပါသော်လည်း ဒေသအလိုက် ၃၇ မင်း နတ်တို့ထက်ပင် အရေးပေး ကိုးကွယ်ကြသည်။ ကိုးမြို့ရှင် နတ်၊ မြင်းဖြူရှင်နတ် စသည်တို့သည် ၃၇ မင်း နတ်စာရင်းတွင် မပါသော်လည်း ဒေသအလိုက် ကိုးကွယ်ကြသော နတ်များဖြစ်ကြသည်။ ကျောက်ဆည်နယ်တွင် ကိုးမြို့ရှင်ကို ကိုးကွယ်ပသကြ၏။ စင်စစ် ၃၇ မင်း နတ်စာရင်းတွင် မပါသောနတ် အများအပြားပင် ရှိနေပေသေးသည်။

ဤ သုံးဆဲ့ခုနှစ်မင်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ နတ်သံများလည်း ရှိ၍ ၃၇ ချင်း ဟူ၍လည်း ရှိသေးသည်။ နတ်သံပုံစံအဖြစ် အောက်တွင် မင်းကျော်စွာ နတ်သံကို ဖော်ပြထားသည်။

"ပဆိုးငယ် ပန်းပေါင်းလေ၊ ရွှေညာဖျားနှင့် ပပွါးသူငယ်ဖြူပြာလဲ့၊ ဘိုမယ်တဲ့ မောင်၊ သောက်ခေါင်ငယ်မှ မူးမော်၊ ကြက်နှင့် မီးကို၊ မငြီးပျော်သည်၊ မောင်ကျော်လူအား၊ ခေါင်းပေါင်းကြယ်နီ၊ ပန်းဘိုနီနှင့်၊ ကူနီနန်းက၊ ရွှေခန်းသာတဲ့၊ လေးပါးညီနောင်၊ သောက်လိုလာလျှင်၊ တွေ့ရာလဲသည်၊ လုပ်ဓါ၊ သိင်္ဂီယ်မှ လျှံလန်း၊ ရွှေဂံဆန်းသည်၊ နန်းကြော့သခင်၊ အလောင်းစည်သူ ဇမ္ဗူမှန်ကင်း၊ စက်တော်ရင်းမှာ၊ မင်းကျော်စွာတဲ့၊ မတ်ညာတင်ကို၊ တိုင်းခွင်ငယ်မှ ကျော်ကြား၊ ပျိုများပန်းညို၊ ကြည့်တိုင်းငယ်စိုသည်၊ လူပျိုမှိုင်းငယ်၊ သောက်တိုင်းထွာချည်၊ ပျိုများချစ်ဖွယ်၊ အရက်အိုးနှင့် ကြက်ဖိုးပါလျှင်၊ ပျော်ရာအိပ်လို့၊ စိတ်ကြိုက်ကယ်လည်သည်၊ ဘိုမယ်အိမ်က ဆဲသည်နှင့်။ မောင်ကျော်ဖောက်သည်၊ ပိတောက်ကြည်နှင့်၊ ဝါးကျည်တသီး၊ ခွေးမတိုးသည်၊ မိုးပါးနီးချည့်၊ မီးနှင့် ပျော်သည်၊ မောင်ကျော် အတင့်ရဲသည်နှင့်၊ ခပ်မှိုင်းမှိုင်းနှင့်၊ တွေ့တိုင်းမရှောင်၊ဘိုမယ်မောင်မှာ၊မျက်တောင်ရှက်လို့ မေးသည်နှင့်။ ခုန့်တိုင်းငယ်ရှလို့၊ ဘုတ်လှစ္စန်ချီ၊ မောင်ကျော်ဆက်သည့်၊ ကြက်ဖနီငယ်၊ နာရီအောင်ချက်က ရွှေးသည်နှင့်။ ကြက်လောင်းစရာ၊ ဘိုမယ်သိလျှင်၊ မိလျှင်ခက်မည်၊ ကြောက်၍ဖွက်ရရှာသည်။ ခါးမှ ငွေထုတ်ကလေးသည်နှင့်၊ ကြက်တိုက်ငယ် သောင်ပင်က ဝေးသည်နှင့်၊ ဘိုမယ်အိမ်မှာ စိန်ပင်ပေါက်ကယ်တဲ့၊ သောက်ချည့်ခင်မ၊ လဲလျက်ကယ်မြင်လျှင်၊ ထူချင်ထူကြ၊ မထူနေပ၊ မြေမှထချည့်၊ ပျိုများသက်ဖျော်၊ ကူနီနန်းက၊ ရွှေနန်းပျော်ကို၊ တော်တော် မမှတ်ကြပါနှင့်၊ မောင်ကျော်လက်ရာ၊ ရွှေရင်အေးလို့၊ ထွေးထွေးနာလျှင်၊ လေနာထွေးလို့ မှားကြမယ်၊ ဗျာဆံကျနှင့် နှမအပျို၊ လေဆေး သောက်လို့ မပျောက်လို၊ အနာပိုလို့ ပွားကြမယ်၊ ရွှေရင်ဆာသည်၊ လေနာမျိုးကို၊ သောက်ကိုး တင်လျှင်၊စင်စင်ငြိမ်းအောင်၊ သိမ်းခဲ့မယ်လေး၊ ပျိုကာလနှမထွေးတို့။"

၃၇ ချင်းမှာ ၃၇ မင်း နတ်တို့ကို ပသသော နတ်ကပွဲတွင် ဆိုင်းများက တီးမှုတ်ကြသော ရှေး အရိုးအစဉ်ကို နောက်ဆရာများက မှတ်သားထားပြီးလျှင်၊ ယင်းတို့ကို ၃၇ ချင်းဟု ခေါ်သည်။ ယင်းသည့် ၃၇ ချင်းတွင် –

"သိကြားနတ်၏ တွင်ချင်းမှာ

ဘုန်းတန်းတေဇာ၊ ဖြာဖြာ အရောင်လင်းပါလို့၊ မင်းမင်းထိပ်ခေါင်ဘွေ့။ (ပဌမခံပြီးလျှင်–နောက်)။ ကြိုင်သင်းနန်းမဥ္ဇူလေတည့်၊ ကြူကြူလှိုင်၊ မြမှိုင်သာပျံ့မွှေးငယ်မှာ– ထွေပင် ထွေဆန်းလှတောင်း။ ။ကြိုင်ဧေ–နန်းမဥ္ဇူငယ်လေ၊ ဇမ္ဗူပြန့်မြေချာ၊ပျံ့လှိုင်ထုံလှ မွှေးတယ်လေ။ သပြေမြဒီပါ၊ မြတ်ခွင်မြဘ်ညာ။ ။ရာမင်း ရှိပန်ခါ၊ တေဇာ ပြင်းပြင်းလေ။ မြတ်စွာ ရွှေဘုံနန်းနှင့်နှင့်လေး။ ။ဖန်နန်းဆောင်၊ ဝေမျောင်လင့် လွတ်ရှားလို့ သိကြား နတ်ဘုံလို့။ ။

ယင်းကို ခံပြီးမှ နတ်သံပစ်သည်။ နတ်သံချ၍ ပသသော အခါ တီးချင်း။

သောင်းခန်းလုံးကေသာ၊ ဘုန်းတန်းကြီးကြောင်း၊ သောင်းခန်းလုံးကေသာ၊ ဘုန်းတန်းအနီးတေဇာ ကျေညာကျော်သဲ၊ မို့မို့ဝေဆာ၊ အာကာဘုံထဲ။ ။(အဖန်ဖန်တီးပြီးနောက်)

ဖြိုးဖြိုးမြင့်ဝေမှိုင်၊ ယိမ်းယိမ်း ပျောင်းပျောင်း၊ ရွှေပြည်လုံး ငြိမ်းကြောင်း၊ ရှုံးပေါင်းပွဲတော်သာကို၊ လာချည့်လေ၊ ရှင်မြူး ကျူးကြော်ခါ၊ သာပင် သာစွလေ၊ ရွှေဝန်းရံကာထွန်းလျှံ ဖြာ၊ရွှေကျွန်းမြန်ချာ၊ပြင်ဖြာစည်လှလေ။ ။

( တနည်း နတ်သံချလျှင်–တီးရမည်မှာ )

တုဿိတာ–တုဿိတာ၊ တုဿိတာသာမော၊ နတ်ပင်နတ်တို့တော၊ သာမော တုဿိတာငယ်လေ၊ သာစွလေ။ သာမော တုဿိတာငယ်လေ သာစွလေ–"ဟူ၍ ဖြစ်သည်။

**သုံးဆဲ့နှစ်ကောဋ္ဌာသ။** ။ခန္ဓာကိုယ်၏ ၃၂ ပါးသော အဖို့ အစု အစိတ် အပိုင်းများကို သုံးဆဲ့နှစ်ကောဋ္ဌာသဟု ခေါ်ဆိုသည်။ ထိုခန္ဓာကိုယ် အစိတ်အပိုင်း များကား ၁၊ ကေသာ–ဆံပင်။ ၂၊ လောမာ–အမွေး။ ၃၊ နခါ–ခြေသည်း လက်သည်း။ ၄၊ ဒန္တာ–သွား။ ၅၊ တစော–အရေ။ ၆၊ မံသံ–အသား။ ၇၊ နှာရု–အကြော။ ၈၊ အဋ္ဌိ–အရိုး။ ၉၊ အဋ္ဌိမိဉ္ဇ–ရိုးတွင်းခြင်ဆီ။ ၁၀၊ ဝက္က–အညှို။ ၁၁၊ ဟဒယ–နှလုံး။ ၁၂၊ ယကနံ–အသည်း။

၁၃၊ ကိလောမကံ–အမြှေး။ ၁၄၊ ပိဟကံ–အဖျဉ်း။ ၁၅၊ ပပ္ဖာသံ–အဆုတ်။ ၁၆၊ အန္တံ–အူမ။ ၁၇၊ အန္တဂုဏံ–အူသိမ်။ ၁၈၊ ဥဒရိယံ–အစာသစ်။ ၁၉၊ ကရီသံ–အစာဟောင်း။ ၂၀၊ မတ္ထလုင်္ဂ–ဦးနှောက်။ ၂၁၊ ပိတ္တံ–သည်းခြေ။ ၂၂၊ သေမှ–သလိပ်။ ၂၃၊ ပုဗ္ဗော–ပြည်။ ၂၄၊ လောဟိတံ–သွေး။ ၂၅၊ သေဒေါ–ချွေး။ ၂၆၊ မေဒေါ–အဆီခဲ။ ၂၇၊ အဿု–မျက်ရည်။ ၂၈၊ ဝသာ–ဆီကြည်။ ၂၉၊ ခေဠော–တံထွေး။ ၃၀။ သိင်္ဃာဏိကာ–နှပ်။ ၃၁၊ လသိကာ–အစေး။ ၃၂၊ မုတ္တံ–ကျင်ငယ် တို့ဖြစ်သည်။

ဤ ၃၂ ပါးသော ကောဋ္ဌာသတို့အနက် ဆံပင်မှ ဦးနှောက်အထိ နှစ်ဆယ်သော ကောဋ္ဌာသ အစုတို့သည် အဇ္ဈတ္တအတွင်း ပထဝီဓာတ်များ ဖြစ်ကြကုန်သည်။ ပထဝီဓာတ်များ ဖြစ်ကြသော်လည်း ယင်းဆံပင်စသော ကောဋ္ဌာသဝတ္ထု တခုတခု၌ ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယော၊ ဝဏ္ဏ၊ ဂန္ဓ၊ ရသ၊ ဩဇာ ဖြစ်သည့် ရုပ်ရှစ်ပါးတို့သည် ပေါင်းစုလျက်ရှိကြသည်။ပေါင်းစုလျက် ရှိကြသော်လည်း ဆံပင်စသော ရုပ်ကလာပ်စုတို့၌ ပထဝီဓာတ်သည် များလျက်၊ ထင်ရှားလျက် ရှိ၏။ ယင်းသို့ ပထဝီဓာတ် သာလျှင် များလျက်၊ ထင်ရှားလျက်ရှိခြင်းကြောင့် များရာထင်ရှားရာကို အစွဲပြု၍ ပထဝီဓာတ်ဟု ခေါ်ဆိုသည်။ စင်စစ်ခိုင်မာကြမ်းတမ်းမှု သဘောလက္ခဏာမျှသာ ဖြစ်သည်။

တဖန် သည်းခြေမှ ကျင်ငယ်အထိ ၁၂ ပါးသော ကောဋ္ဌာသ အစုတို့သည် အဇ္ဈတ္တအတွင်း အာပေါဓာတ်မည်ကုန်၏။ ယိုစည်းခြင်း၊ ဖွဲ့စည်းခြင်း သဘောရှိသောကြောင့် အာပေါဓာတ်မည်သော်လည်း ယင်း သည်းခြေစသော ကောဋ္ဌာသဝတ္ထု တခုတခုတွင် ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယော၊ ဝဏ္ဏ၊ ဂန္ဓ၊ ရသ၊ ဩဇာ ဖြစ်သည့် ရုပ်ရှစ်ပါးတို့သည် ပေါင်းစုလျက် ရှိကြသည်။ ပေါင်းစုလျက် ရှိကြသော်လည်း သည်းခြေစသော ကောဋ္ဌာသတို့၌ အာပေါဓာတ်သည် များလျက်၊ ထင်ရှားလျက်ရှိ၏။ ထိုသို့ အာပေါဓာတ်သာလျှင် များလျက်၊ ထင်ရှားလျက် ရှိခြင်းကြောင့် များရာ၊ ထင်ရှားရာကို အစွဲပြု၍ အာပေါဓာတ်ဟု ခေါ်ဆိုလေသည်။ စင်စစ် ယိုစည်းမှု၊ ဖွဲ့စည်းမှု၊ သဘောလက္ခဏာမျှသာ ဖြစ်သည်။

**သွာတိနက္ခတ်။** ။နက္ခတ် ၂၇ လုံး — ရှု။

**သွား။** ။လူတယောက်၌ အရွယ်ရောက်၍ သွားစုံလျှင် အထက် ၁၆ ချောင်း၊ အောက် ၁၆ ချောင်း ပေါင်း ၃၂ ချောင်း ရှိ၏။ ငယ်သွားမှာ အထက် ၁၀ ချောင်း အောက် ၁၀ ချောင်း ပေါင်း အချောင်း ၂၀ ရှိ၏။ ငယ်သွားသည် ကလေး ခြောက်လကစ၍ ပေါ်လာရာ သုံးနှစ်အရွယ်ကျမှ စုံညီသည်။ သွားစုံသည့်အခါ ဖြူသွား လေးချောင်း၊ အစွယ်နှစ်ချောင်း၊ အံသွားလေးချောင်း ဟူ၍ အထက်သွား ၁၀ ချောင်း၊ အောက်သွား ၁၀ ချောင်း ရှိ၏။

ထိုငယ်သွားတို့သည် ခုနစ်နှစ် ရှစ်နှစ် ရွယ်မှ အစပြု၍ တချောင်းပြီးတချောင်း ကျွတ်ထွက်ကုန်၏။ ထိုနေရာတွင် သွားသစ်များ ထပ်၍ ပေါက်လာသည်။ သွားများကို လေးမျိုးလေးစား ခွဲထား၏။ ထိုသွားများမှာ ထိပ်တွင် ညီညီညာညာရှိသော ရှေ့သွား၊ အတန်ငယ်ရှည်ပြီး အလွန်ထက်မြက်သော သွား၊ စွယ်ထိပ်တွင် နှစ်ထစ် ကွဲလျက် အလယ်တွင် ချိုင့်နေသော အံသွား၊ နောက်ဆုံးမှ ပေါက်သောအံဆုံးတို့ ဖြစ်၏။

ရှေ့သွားကား အထက်အောက် အားလုံးပေါင်း ရှစ်ချောင်းရှိ၏။ ဆောက်သွားကဲ့သို့ သဏ္ဌာန်ရှိ၍ထက်၏။ ကိုက်ဖြတ်ရန် အသုံးဝင်၏။ အမြစ်တခုစီသာ ရှိသည်။ အစွယ်ကား အထက်အောက် အားလုံးပေါင်း လေးချောင်း ရှိ၏။ ရှေ့သွားထက်ရှည်၍ ချွန်၏။ အသက်မေးရိုးတွင် ထိုသွားသည် မျက်စိ၏ အလယ်ဗဟိုနှင့် တတန်းတည်းရှိသည်။ အစွယ်၏နောက်၌ အံသွားနှစ်ချောင်းစီပေါက်၍ အထက်အောက် အားလုံးပေါင်း အံသွားရှစ်ချောင်းရှိသည်။ ဤသွားတွင် အမြစ်တခုမှနှစ်ခုအထိရှိ၏။ အံသွားတို့၏နောက်၌ အံဆုံးသုံးချောင်းစီ ပေါက်၍ အထက်အောက် အားလုံးပေါင်း အံဆုံး ၁၂ ချောင်း ရှိ၏။ ဤသွားများတွင် အမြစ်နှစ်ချောင်းမှ သုံးချောင်းအထိရှိသည်။ အစားအစာများကို ကြေညက်စွာကိုက်ဝါးနိုင်ရန် အတွက် သန်စွမ်း၍ များပြားသောအမြစ်များနှင့် ကျယ်ပြန့်သော မျက်နှာပြင်များ သဘာဝအလျောက် ရှိသည်။

အထက်ပါ သွား ၃၂ ချောင်းအနက် အံဆုံးလေးချောင်းမှတပါး ကျန်သွားများသည် အသက် ၁၂ နှစ် ၁၃ နှစ်တွင် စုံလေ့ရှိ၏။ အံဆုံး လေးချောင်းမှာမူကား အသက် ၁၆ နှစ်မှ ၂၅ နှစ်အတွင်း ပေါက်တတ်သည်။ အံဆုံးပေါက်သည်ကို မသိသူ မသိလိုက်ကြ သော်လည်း အချို့မှာ အံဆုံးပေါက်သည့် ဝေဒနာကို အတော်ပြင်းပြင်း ခံကြရလေသည်။

သွားကို (၁) သွားဖုံးအထက်တွင် ပေါ်နေသော အပိုင်းနှင့် (၂) သွားဖုံးအတွင်းသို့ ဝင်နေသော အမြစ်ပိုင်းဟု နှစ်ပိုင်း ခွဲခြားထား၏။ အတွင်းသို့ အထပ်ထပ် အလွှာလွှာခွဲလိုက်သော် (၁) အပေါ်ယံ ကြွေရည်သုတ်သကဲ့သို့ ပြောင်လက် ချောမွတ်နေသော အပိုင်း၊ (၂) အတွင်းရှိ အရိုး၊ (၃) သွား၏ အခြေဖြစ်သော ကျောက်၊ (၄) အရိုးခေါင်း တွင်းရှိ သွေးကြောကလေးများနှင့် နာဗ်ကြော စုပေါင်းတည်ရာ ဌာနတို့ ဖြစ်ကြသည်။

အီပေါ်ယံ ကြွေရည်သုတ်သကဲ့သို့ ပြောင်လက်ချော မွတ်နေသော အပိုင်းသည် သွား၏ အပေါ်ဆုံးအထပ်ဖြစ်၏။ ကြွေရည် ခပ်ပါးပါးလောင်းထားသကဲ့သို့ ဖြစ်နေ၏။ အစာကို ကြိတ်ချေရသော အပိုင်းများ၌မူကား ကြွေသားထူလေသည်။ သို့သော် အကြိတ်အချေများလာသည့်အခါ ထိုကြွေသားလည်း တဖြည်းဖြည်းပါးလာ၏။ ကြွေရောင်အပိုင်းအောက်တွင် ဆင်စွယ်ကဲ့သို့သော အရိုးရှိ၏။ ဤအရိုးသည် အပေါ်ယံ ကြွေသားထက် ပျော့သော်လည်း သာမန်အရိုးထက်မာသည်။

သွား၏အရင်းပိုင်းတွင် ပါးသော အရိုးလွှာကလေးဖြင့် ဖုံးအုပ်နေ၏။ ဤသို့ဖုံးအုပ်နေပုံမှာ သွား၏ အထက်ပိုင်းတွင် ကြွေသားဖြင့် ဖုံးအုပ်နေသကဲ့သို့ပင် ဖြစ်လေသည်။

အရိုးအခေါင်းထဲရှိ သွေးကြောကလေးများနှင့် နာဗ်ကြောများ တည်ရာဌာနတွင် သွားများ အစဉ်ခိုင်မြဲလျက်ရှိစေရန် အာဟာရဓာတ်ဖြင့် ထောက်ပံ့ပေးနေသော သွေးကြောကလေးများရှိ၏။ ဤသွေးကြောများသည်အရိုးတွင်းရှိ အလွန်သေးသွယ်ငယ်ငေါင်းသောပြွန်များမှတဆင့် သွားတခုလုံးကို အာဟာရဓာတ်ဖြင့် ထောက်ပံ့လျက်ရှိသည်။

ငယ်သွားများသည် ကြီးသွားများထက် ငယ်၏။ ငယ်သွားကျိုးပြီးနောက် ကြီးသွားထပ်ပေါက်လာခြင်းမှာ ငယ်သွားအောက်၌ ကြီးသွားသည် သွားအထက်သို့ ထွက်ပြူရန် အဆင်သင့် ရှိနေခြင်းကြောင့် ဖြစ်လေသည်။

**သွားစိုက်ပညာ။** ။မူလ သွားများကို စစ်ဆေးခြင်း၊ ဆေးကြောပေးခြင်း၊ ပြုပြင်ပေးခြင်း၊ နုတ်ပေးခြင်းနှင့် သွားတုများကို စိုက်ပေးခြင်းစသော အတတ်ပညာကို သွားစိုက်ပညာဟု ခေါ်သည်။ သွားစိုက်ပညာသည် ရှေးအီဂျစ်လူမျိုးများ လက်ထက်မှစ၍ ပေါ်ပေါက်လာသော ရှေးအတတ်ပညာတရပ် ဖြစ်ခဲ့သော်သည်း ဆေးဖက်ဆိုင်ရာတွင် မကြာသေးမီကမှ အသိအမှတ်ပြုခြင်းကို ခံခဲ့ရလေသည်။ ရှေးအခါကပင်လျှင် သွားစိုက်ဆရာများသည် သွား၏အပေါက်များကို ဖာပေးခြင်း၊ သွားများနုတ်ပေးခြင်းနှင့် သွားတုများကို ထည့်ပေးခြင်းများကို ပြုလုပ်ပေးခဲ့ကြလေသည်။

ယခုအခါ လူများတွင် ဖြစ်ပွားတတ်သည့် အချို့သော ရောဂါများသည် သွားများကြောင့် ဖြစ်သည်ကို သိလာကြလေသည်။ သွားများကို ဂရုမစိုက် ပေါ့ပေါ့ဆဆထားမှုကြောင့် ရောဂါပိုးများ ဝင်ရောက်နိုင်သဖြင့် သွားဖုံးများတွင်ရင်း၊ သွားများတွင်ရင်း အနာများ စတင်ဖြစ်ပွားနိုင်လေသည်။ ထို့ကြောင့် သွားစိုက်ဆရာဝန်အဖြစ် အသိအမှတ်ပြုခံရသော ဆရာဝန်များထံသို့ ခြောက်လလျှင်တကြိမ်ကျ သွားများကို သွားရောက်ပြသ၍ စုံစမ်းစစ်ဆေးခြင်း ခံယူထိုက်လေသည်။ ယခုခေတ် သွားစိုက်ဆရာများသည်ရှေးခေတ်သွားစိုက်ဆရာများကဲ့သို့သွားများကို နုတ်ပေးတတ်ရုံ၊ စိုက်ပေးတတ်ရုံ၊ ဖာ၍ပေးတတ်ရုံမျှ



ရန်ကုန်မြို့ သွားဖက်ဆိုင်ရာ ဆေးကောလိပ်မှ သင်တန်းခန်းမ



သွားဖက်ဆိုင်ရာ ဆေးကောလိပ်တွင် သွားတုအတတ်ပညာကိုလည်း သင်ကြားရသည်။

နှင့် မပြီးတော့ပဲ ပါးစပ်နှင့် ပတ်သက်သော အင်္ဂါအစိတ်အပိုင်းများနှင့် သွားတွင်ဖြစ်ပေါ်တတ်သည့် ရောဂါများ၏ အကြောင်းရင်းများကိုလည်း နားလည်ရန် လိုလာပေတော့သည်။ ထို့ပြင် သွားများ၏ ချွတ်ယွင်းချက်ကြောင့် ဖြစ်ပေါ်တတ်သည့် ရောဂါများကိုလည်း နားလည်ရမည် ဖြစ်ပြီးလျှင် မည်ကဲ့သို့ ကုသထိုက်ကြောင်းကိုလည်း ပြောကြားနိုင်သည့် အရည်အချင်းရှိရမည် ဖြစ်လေသည်။ သွားစိုက်ဆရာသုံးစွဲသည့် ကရိယာများသည်လည်း ခေတ်အမှီဆုံး ဖြစ်ပြီးလျှင် သူ၏ နားလည်မှုသည်လည်း ကျယ်ဝန်းနိုင်သမျှ ကျယ်ဝန်းရမည် ဖြစ်လေသည်။

သွားစိုက်ပညာသည် အရေးကြီးသည့် ပညာရပ်တခု ဖြစ်လာပြီ ဖြစ်သောကြောင့် သွားစိုက်ဆရာ တယောက် ဖြစ်လာနိုင်ရန် နှစ်ရှည်လများ သင်ကြားရပေသည်။ သွားစိုက်ပညာကို သင်ကြားလိုသူသည် ဆယ်တန်းစာမေးပွဲကို အောင်မြင်ရမည်ဖြစ်ပြီးလျှင် အစိုးရ အသိအမှတ်ပြုထားသည့် ဆေးရုံတရုံနှင့် ဆက်သွယ်ထားသည့် သွားဖက်ဆိုင်ရာ ဌာနတွင် ဝင်ရောက်သင်ကြားရန် ပြဋ္ဌာန်းထားပြီး ဖြစ်လေသည်။ ဗြိတိသျှနိုင်ငံတွင် သွားနှင့်စပ်လျဉ်းသည့် ဘွဲ့များကို ခေတ်သစ် တက္ကသိုလ်များကသာလျှင် ပေး၍ ရှေးကျသည့် အောက်စဖို့တက္ကသိုလ်၊ သို့မဟုတ် ကိမ်းဗရစ်တက္ကသိုလ်များမှ ဘွဲ့များကို မပေးချေ။ သွားစိုက်ပညာကို အောင်မြင်ပြီး၍ အလုပ်လုပ်သော အခါ၌လည်း ယူနိုက်တက်ကင်းဒမ်းနိုင်ငံရှိ သွားစိုက်ပညာရှင်များ အဖွဲ့တွင် မှတ်ပုံတင်ထားရန် လိုကြောင်း ဥပဒေဖြင့် ပြဋ္ဌာန်းထားလေသည်။

ပဌမဆုံး သွားစိုက်ပညာသင်ကျောင်းကို အမေရိကန်နိုင်ငံ ဗောလတီးမိုးမြို့တွင် ၁၇၃၉ ခုနှစ်၌ ဖွင့်လှစ်ခဲ့၍ ဗြိတိန်နိုင်ငံတွင် ၁၈၅၈ ခုနှစ်၌ နှစ်ကျောင်း ဖွင့်ခဲ့လေသည်။ ထိုကျောင်းနှစ်ကျောင်းသည် နောင်သောအခါ တော်ဝင် သွားစိုက်ဆေးရုံနှင့် အမျိုးသားသွားစိုက်ဆေးရုံများ ဖြစ်လာကြပြီးလျှင် ယခုအခါ လန်ဒန်တက္ကသိုလ်လက်အောက်တွင် ရှိကြလေသည်။

မြန်မာနိုင်ငံတွင် ၁၉၆၄ ခုနှစ် တက္ကသိုလ် ပညာရေး ဥပဒေအရ ရန်ကုန်ဆေးတက္ကသိုလ် (၁) နှင့် ဆက်သွယ် ပေါင်းစည်းလျက် သွားဖက်ဆိုင်ရာ ဆေးကောလိပ်ကို ၁၉၆၄ ခုနှစ်တွင်စတင်ဖွင့်လှစ်ခဲ့၏။ သွားဖက်ဆိုင်ရာ ဆေးကောလိပ်မှဘီဒီအက်စ်ဘွဲ့ (သွားဖက်ဆိုင်ရာ ဆေးပညာဘွဲ့) (ခုနှစ်နှစ်သင်တန်း) ပေးအပ်လျက် ရှိသည်။ တက္ကသိုလ် ဝင်တန်း စာမေးပွဲကို အဆင့်အတန်းမှီ အောင်မြင်ပြီး သူများ တက်ရောက်သင်ကြားနိုင်သည်။ သွားဖက်ဆိုင်



သွားစိုက်ဆရာဝန်က မကောင်းသောသွားကို နုတ်ပေးရသည်။

ရာ ဆေးကောလိပ်ကို ရန်ကုန်ဆေးရုံကြီး၏ ယခင်ပြင်ပ လူနာကုဌာန အဆောက်အအုံတွင် ဖွင့်လှစ်ထားလေသည်။

**သွေး။** ။သွေးကို လူတိုင်း ကြီးကြီးငယ်ငယ် မြင်ဘူးကြ၏။ ကျွန်ုပ်တို့၏ ခန္ဓာကိုယ် အရေပြားကို ခြစ်မိသည့်အခါဖြစ်စေ၊ မားရှမိသည့်အခါဖြစ်စေ ယိုထွက်လာသော နီမြန်းသည့် ခပ်စေးစေး အရည်သည် သွေးပင်ဖြစ်သည်။ ခန္ဓာကိုယ် အစိတ်အပိုင်းတိုင်းသည် အစာအတွက် သွေးကို အမှီပြုနေရ၏။ ပေါင်တရာ အလေးချိန်ရှိသော ကျန်းမာသော လူတယောက်တွင် သွေးခုနစ်ပေါင်ကျော်ကျော်ခန့် ရှိ၏။ သွေးထဲတွင်ရှိသော ကုဋေ တသိန်းကျော် အရေအတွက်ရှိသော ဆဲတို့သည် နေ့စဉ်ပျက်၍ နေ့စဉ်ဖြစ်ပေါ်လျက် ရှိကြသည်။ လူ့ခန္ဓာကိုယ်တွင်ရှိသော အရည်များအားလုံးသည် သွေးကို ဖြတ်သန်းသွား၍ လူတကိုယ်လုံးတွင် ရေသည် ဆယ်ပုံပုံ ကိုးပုံ ကျော်ကျော်ခန့် ရှိသည်။ သို့ပင် များသော်လည်း သွေးကား တကွတ်ဝင်ပုလင်းနှင့် ငါးပုလင်းမှ ခြောက်ပုလင်းအထိ မှန်မှန်ရှိအောင် ပြုပြင်ထိန်းသိမ်းသွားနိုင်သည်။

သွေးသည်"ပလာစမာ"ခေါ် အရည်ထဲတွင် ပေါလောမျောနေသော အလွန်များပြားသည့် ဆဲများ အဖြစ်ဖြင့် ရှိကြသည်။ သွေးတဝက်လောက်သည် ဆဲများ ဖြစ်ကြသည်။ သွေးတွင်ရှိသော ဆဲများကို စုစည်းလိုက်လျှင် အသည်းလောက် ကြီးသည့် အစိုင်အခဲတခု ဖြစ်လာနိုင်သည်။

ဤ ဆဲများသည် အလွန်သေးငယ်ရကား ဆဲပေါင်း ၆၀,၀၀၀ လောက်ကို တွယ်အပ်ထိပ်တွင် တင်ထားနိုင်ဖွယ်ရာရှိသည်။ သွေး တစ်ကုဗမီလီမီတာတွင် သွေးနီဆဲများ လေးသန်းမှ ခြောက်သန်းအထိ တွေ့နိုင်သည်။ ယောကျ်ားများတွင် မိန်းမများမှာထက် သွေးနီဆဲများ ပိုရှိကြသည်။ ဤဆဲများတွင် သံဓာတ်နှင့် ပရိုတင်းဓာတ်ပါသော "ဟီမိုဂလိုဗင်" ခေါ်သည့် အရာများ ပါရှိလျက်ရှိသည်။ ဟီမိုဂလိုဗင် ပါရှိသောကြောင့် သွေး၏ အရောင်သည် နီ၏။ ဆဲအနီများသည် အဆုတ်မှ အောက်ဆီဂျင်ဓာတ်ကို ယူ၍ တကိုယ်လုံးသို့ ပျံ့နှံ့စေ၏။ ထိုနောက်တကိုယ်လုံးမှမကောင်းသော ကာဗွန်ဒိုင်အောက်ဆိုက် ဓာတ်ငွေ့ကို ယူပြီးလျှင် အဆုတ်သို့ ပြန်ပို့ပြန်သည်။ အောက်ဆီဂျင်ဓာတ် သယ်ယူသွားသော သွေးများ၏ အရောင်သည် တောက်ပသော အနီရောင်ရှိ၍ ကာဗွန်ဒိုင်အောက်ဆိုက်ဓာတ် သယ်ယူသွားသော သွေး၏အရောင်မှာ ခရမ်းရောင်သန်းလျက် ရှိသည်။

သွေး တစ် ကုဗမီလီမီတာတွင် သွေးဖြူဆဲများလည်း ငါးထောင်မှ တသောင်းထိ ရှိနေကြသည်။ ဤသွေးဖြူဆဲများသည် ခန္ဓာကိုယ်ကို ရောဂါပိုး ကျရောက်ခြင်းမှ ကာကွယ်၏။ ယင်းတို့သည် ဗက်တီးရီးယားများကို ဝါးမျိုပြီးနောက် ပြည်တည်နာနှင့် အနာစိမ်းတို့တွင် တွေ့ရသော ပြည်အဖြစ်သို့ ပြောင်းလဲသွားလေသည်။ ခန္ဓာကိုယ်ထဲသို့ ဗက်တီးရီးယားများဝင်ရောက်လာသည့် အခါတိုင်း သွေးဖြူဆဲများ အမြောက်အမြား တိုးတက်လာကြသည်။ အဆုတ်ရောင် ရောဂါ ဖြစ်သည့်အခါ သွေးဖြူဆဲများသည် တစ်ကုဗမီလီမီတာတွင် နှစ်သောင်းအထိ တိုးတက်လာနိုင်ကြသည်။ သွေးထဲတွင် ဤသွေးဖြူဆဲများအပြင် သွေးဥမွှားများလည်း ရှိသေးသည်။ သွေးတစ်ကုဗမီလီမီတာတိုင်းတွင် သွေးဥမွှားများ နှစ်သိန်းငါးသောင်းမှ သုံးသိန်းအထိ ရှိသည်။ သွေးခဲသွားခြင်းများသည် ဤသွေးဥမွှားများကြောင့် ဖြစ်သည်။ သွေးတစ်ကုဗမီလီမီတာတွင် သွေးဥမွှားများ နှစ်သိန်းငါးသောင်းထက် နည်းနေလျှင် သွေးသည် အလွယ်တကူနှင့် မခဲနိုင်ချေ။

သွေးတွင်ပါသော "ပလာစမာ"အရည်သည် ဤသွေးဆဲများနှင့် အခြားအရာများကိုပါ သယ်ဆောင်ယူသွားသည်။ ပရိုတင်းများလည်း ပလာစမာတွင် ရှိကြသည်။ အယ်လဗျူမင်၊ ဂလိုဗျူလင်နှင့် ဖိုင်ဗရင်နိုဂျင်များသည် အလွန်အရေးကြီးသော ပရိုတင်းများ ဖြစ်ကြသည်။ ယင်းတို့အနက် ဖိုင်ဗရင်နိုဂျင်သည် သွေးကိုခဲစေနိုင်၏။ ရောဂါပိုးများကို ဖျက်ဆီးပစ်နိုင်သော ပတိ ပစ္စည်းများကိုလည်း သွေးပလာစမာတွင် တွေ့ရသည်။ အူများမှ စုဆောင်းထားသော အစာနှင့်ရေများ၊ ဂလင်းအိတ်များမှ ထုတ်သော ဟော်မုန်းများကိုလည်း သွေးပလာစမာများက သယ်ဆောင် ယူသွားသည်။ ပလာစမာသည် ကိုယ်တွင်းမှ စွန့်ပစ်သော အညစ်အကြေး ကိုလည်း ကျောက်ကပ်များသို့ သယ်ဆောင်သွားပြီးလျှင် ထိုမှပြင်ပသို့ ထုတ်လိုက်သည်။ ပလာစမာသည် အနည်းငယ်ငန်သည်။

**သွေးလှည့်လည်ခြင်း။** ။သွေးသည် ခန္ဓာကိုယ်တခုလုံးသို့ လှည့်ပတ် သွားနေရမည် ဖြစ်သည်။ နှလုံးသည် ရေစုတ်စက်ကဲ့သို့ သွေးကို လှည့်လည်စေသည်။ သွေးသည် သွေးလွှတ်ကြော၊ သွေးပြန်ကြောနှင့် သွေးကြောမျှင်များဖြင့် ခန္ဓာကိုယ်အတွင်း လှည့်လည်လျက်ရှိရာ နှလုံးသည် ထိုသွေးများကို အလွန်လျင်မြန်စွာ သွားနေစေရကား ခန္ဓာကိုယ်တွင်းရှိ သွေးအားလုံးသည် နှလုံးကို နှစ်မိနစ်၊ သုံးမိနစ်တိုင်းဖြတ်သန်းသွားရ၏။ သွေးဆဲတခုသည် နှလုံးကို စက္ကန့်နှစ်ဆယ်တွင် လှည့်ပတ်သွားနိုင်သည်။ သို့ဖြင့် တနာရီတနာရီလျှင် စည်ခြောက်စည်စာလောက်နှင့် ညီမျှသော သွေးများသည် နှလုံးကို ဖြတ်သန်းသွားလျက် ရှိနေလေသည်။



ရန်ကုန်မြို့ ပြည်သူ့ဆေးရုံကြီးရှိ သွေးလှူဘဏ်တွင် အမျိုးသမီးတဦး သွေးလှူနေစဉ်

သွေးလှည့်ပတ်သွားရာ၌ သွေးကြောတစုသည် သွေးကို နှလုံးမှ အဆုတ်သို့ ယူသွားပြီးလျှင် တဖန် နှလုံးသို့ ပြန်ယူလာ၏။ ယင်းသို့ ယူသွားရာ၌ သွေးတွင် အောက်ဆီဂျင်ပြည့်လာ၍ ကာဗွန်ဒိုင်အောက်ဆိုက်ဖြစ်သော အညစ်အကြေးများကို ထုတ်ပစ်လိုက်သည်။ အခြားသွေးကြောတစုက နှလုံးမှ အောက်ဆီဂျင်အပြည့် ရလာသော သွေးကို ခန္ဓာကိုယ်အခြားအစိတ်အပိုင်းများသို့ ယူသွားသည်။ အခြားသွေးကြောတစုက သွေးကို အသည်းသို့ ဖြတ်ယူသွားရာ အသည်းတွင် ဓာတ်ပြောင်းမှုများ ဖြစ်ပေါ်လေသည်။ သွေးမှသကြားကိုထုတ်ယူပြီးလျှင် နောင်အသုံးပြုရန်အတွက် အသည်းတွင် သိုလှောင်ထား၏။ အညစ်အကြေးများသည် ဆီးအဖြစ်သို့ ပြောင်းလဲသွားပြီးလျှင် ကျောက်ကပ်မှတဆင့် အပြင်သို့ ရောက်သွားလေသည်။

သွေးသည် လူ၏ခန္ဓာကိုယ် အပူချိန်ကို ၉၈.၆ ဒီဂရီဖာရင်ဟိုက် အနေ၌ အမြဲရှိနေရန် ပြုလုပ်လျက်ရှိသည်။ ဤ ၉၈.၆ ဒီဂရီဖာရင်ဟိုက်ကား ကျန်းမာသော လူတယောက်၏ ကိုယ်အပူချိန်ပင်ဖြစ်သည်။

သွေးသည် ခန္ဓာကိုယ်အစိတ်အပိုင်းတိုင်း အတွက် အလွန်အရေးကြီးရကား တနေရာရာမှ သွေးကို တနာရီခန့်လောက် ပိတ်ထားလိုက်လျှင် ထိုအစိတ်အပိုင်းသည် သေသွားနိုင်၏။ ဦးနှောက်မှ သွေးအသွားကို ပိတ်ထားလိုက်လျှင် လူသည် ချက်ခြင်းဆိုသလို သတိမရဖြစ်သွားပြီးလျှင် မကြာမီအတွင်း လူလည်း သေသွားလေသည်။ ခန္ဓာကိုယ်မှ သွေးများ သုံးပုံတပုံကျော်ကျော်လောက် ရုတ်တရက် ထွက်သွားခဲ့လျှင်လည်း လူသေနိုင်လေသည်။

လူ၏သွေးများသည် တဦးနှင့်တဦး မတူကြချေ။ သွေးအစုကြီး လေးစု ရှိကြောင်းကား လန်းစတိုင်းနားဆိုသူ ရှာဖွေ တွေ့ရှိခဲ့သည်။ သွေးတဦးနှင့်တဦး မတူကြခြင်းမှာ အချို့၏ သွေးပလာစမာများတွင် အခြားလူတဦး၏ သွေးနီဆဲလ်များကို စုပေါင်း ခဲသွားစေသောအရာများ ပါရှိခြင်းကြောင့် ဖြစ်သည်။ ဤ သွေးမတူခြင်းမှာ သွေးကူးသည့် ကိစ္စများတွင် အလွန်ပင် အရေးကြီးပေသည်။ အဘယ်ကြောင့်ဆိုသော် အပြင်မှ လူတယောက်၏သွေးသည် အသက်ရှင်လျက်ရှိသော လူ၏သွေးနှင့် ရော၍ သွေးချင်းမတူသည့်အခါ စုပေါင်းခဲသွားပြီးလျှင် သေစေနိုင်သည်။ အစုကြီးလေးစုကို O, A, B, နှင့် AB အစုဟူ၍ ခေါ်သည်။ O အစုဝင် သွေးမျိုးကို မည်သည့် အစုဝင် သွေးမျိုးရှိသောသူအားမဆို မခဲပဲ သွေးကူးပေးနိုင်သည်။ သို့သော် O အစုဝင် သွေးမျိုးရှိသော လူတယောက်ကို O အစုဝင် သွေးမျိုးမှတပါး အခြား မည်သည့် အစုဝင် သွေးမျိုးကိုမှ သွေးကူးမပေးနိုင်ချေ။ AB အစုဝင် သွေးမျိုးကို အခြားသွေးလေးစုမျိုးရှိသော လူအား သွေးကူးပေးလိုက်လျှင် သွေးခဲမှု ဖြစ်နိုင်သည်။ သို့သော် AB သွေးစုမျိုး ရှိသော လူတယောက်သည် O, A, B, သို့မဟုတ် AB သွေးမျိုးကို သွေးကူးယူနိုင်သည်။ A အစုဝင် သွေးမျိုးသည် B အစုဝင် သွေးမျိုးနှင့် သွေးကူးပေးလျှင် ခဲသွားပေလိမ့်မည်။ သွေးအစုခွဲခြားရာ၌ အခြားအစုခွဲများ ရှိသော်လည်း အထက်ပါ သွေးစုကိုသာ အပြည်ပြည်က လက်ခံခဲ့လေသည်။

သွေးကူးပေးခြင်းသည် သွေးအားအလွန်နည်းသူများ အတွက် အလွန်အရေးပါ အရာရောက်ပေသည်။ ထိုကြောင့် မြို့ကြီးများရှိ ဆေးရုံကြီးများတွင် သွေးလှူဌာနများ တည်ထောင်ထားကြသည်။ အချို့ကျန်းမာ၍ စေတနာထက်သန်သော လူများသည် လူမမာများအတွက် မိမိတို့၏ ခန္ဓာကိုယ်မှ သွေးများကို ဆေးရုံသို့ လာရောက်၍

လျှော့နိမ်းကြသည်။ မိမိတို့၏ သွေးတစက်ဖြစ်ဖို့ လူ့အသက်ကို ကယ်ကြသည်။ ထို့ကြောင့် သွေးလှူသော စေတနာရှင်တို့အား များစွာ ကျေးဇူးတင်ထိုက်ပေသည်။

**သွေးခုန်ခြင်း။** ။နှလုံးမှ သွေးသည် သွေးကြောများအတွင်းသို့ ပန်းထုတ်ခြင်းကြောင့် သွေးကြောများတွင် ဖောင်းလိုက် ကျုံ့လိုက် ဖြစ်နေသည်။ ယင်းသို့ လှုပ်ရှားမှုဖြစ်နေသည်ကို အရေပြားနှင့်အနီးကပ်ဆုံး သွေးကြောများ၌ စမ်းသပ်ကြည့်ခြင်းဖြင့် သိသာသည်။ များသောအားဖြင့် လက်ကောက်ဝတ်ရှိ အရိုးနှင့် အရေပြားကြားတွင်ရှိသော သွေးကြောတွင် သွေးခုန်ပုံကို စမ်းသပ်လေ့ရှိကြသည်။ ဤနေရာ၌ သွေးကြောများမှာ အောက်တွင် အရိုးခံရှိပြီး အရေပြားနှင့် အနီးဆုံးဖြစ်သောကြောင့် အစမ်းရ လွယ်ကူသည်။

သွေးခုန်ပုံကို စမ်းခြင်းသည် လူနာ၏ ရောဂါ အခြေအနေကို အကဲခတ်ရာ၌ အကူအညီပေးသည်။ လူကောင်းတို့၏ သွေးခုန်ပုံမှာ ပျမ်းမျှခြင်းအားဖြင့် တမိနစ်လျှင် ၇၂ ကြိမ်မျှ ခုန်၍ ကလေးများတွင်ကား အကြိမ် ၁၂၀ မျှ ခုန်၏။ သို့သော် အချို့၌ ထိုထက်နည်း၍ အချို့၌ကား ထိုထက်များ၍ ခုန်၏။ ကျန်းမာရေးကို လုံးဝ မထိခိုက်စေပဲ ပင်ကိုယ်နှေးခြင်း မြန်ခြင်းမှာ မထောင်းတာလှသော်လည်း ကျန်းမာခြင်းကို ထိခိုက်စေသော နှေးခြင်း မြန်ခြင်းကိုကား အထူးဂရုစိုက်ရန် လိုလေသည်။

သွေးခုန်ပုံ အနှေး အမြန်အပြင် သွေးခုန်ပုံ အမျိုးအစားကိုလည်း သွေးစမ်းခြင်းဖြင့် သိနိုင်သည်။ သွေးကျဲသည်၊ သွေးပြစ်သည်၊ အကြောထဲတွင် သွေးပြည့်သည်၊ သွေးနည်းသည် စသည်ဖြင့် ခွဲခြား၍ သိနိုင်လေသည်။

ဖျားနေသည့်အခါ၌ဖြစ်စေ၊ နှလုံးရောဂါဖြစ်သည့်အခါ၌ဖြစ်စေ၊ နာဗ်ကြောများ အသွားအလာ မမှန်သည့်အခါ၌ဖြစ်စေ သွေးခုန် အလွန်မြန်တတ်သည်။ သို့ရာတွင် တိုက်ဖွိုက်ခေါ် အူရောင်ဖျားရောဂါ ဖြစ်သည့်အခါ၌ သွေးခုန်အလွန်နှေးသည်ကို တွေ့ရ၏။ သွေးခုန်အလွန်နှေးခြင်းမှာ တိုက်ဖွိုက် ရောဂါ၏ အထူးခြားဆုံးသော လက္ခဏာတရပ်ဖြစ်သည်။

သွေးခုန် မမှန်ဆိုရာ၌ တခါတရံ သွေးခုန်ပုံမှာ လေးငါးချက် အလွန်လျင်မြန်စွာ ခုန်ပြီးနောက် နှေးသွားလိုက်၊ မြန်လာလိုက် ဖြစ်သည်ကို ဆိုသည်။ အစာမကြေခြင်းကြောင့်၎င်း၊ အရက် ဆေးလိပ် စသော နှစ်ကိုတင် အဆိမ့်ပါသည့် အစားအသောက်များကို အသောက်အစားကြူးမှုကြောင့်၎င်း၊ နှလုံးရောဂါဖြစ်သည့်အခါ၌၎င်း သွေးခုန်မမှန်ဖြစ်တတ်သည်။ ကူးစက်တတ်သော ရောဂါများဖြစ်ပြီး နာလှန်ထကာစတွင်လည်း ဖြစ်တတ်၏။

သွေးခုန် အနှေးအမြန်မှာ ကလေးနှင့် လူကြီးတွင်သာ ကွာခြားသည်မဟုတ်၊ မိန်းမနှင့် ယောကျ်ားတွင်လည်း ကွာခြားလေသည်။ ယောကျ်ားထက် မိန်းမက ခုနစ်ကြိမ် ရှစ်ကြိမ်မျှ၍ သွေးခုန်မြန်သည်ကို တွေ့ရ၏။

**သွေးတိုးအား။** ။သွေးတိုးအားဟူသည်မှာ လူ၏ခန္ဓာကိုယ်အတွင်းရှိ သွေးလွှတ်ကြော နံရံများကို သွေးဖိခြင်း၊ သို့မဟုတ် သွေးတိုးခြင်းကို ဆိုလိုသည်။ သွေးတိုးအား၏ အမြင့်သည် နှလုံးကျုံ့ခြင်း၏ အားနှင့် နှုန်း၊ သွေးကြောစုများတွင်ရှိသော သွေး၏ပမာဏ၊ သွေးကိုသယ်ဆောင်သော သွေးလွှတ်ကြောများ၏ ရှန်းကန်သတ္တိများပေါ်တွင် တည်သည်။

ဆရာဝန်တဦးသည် လူတယောက်၏ သွေးတိုးအားကို တိုင်းတာရာ၌ ပဌမ လက်မောင်းတွင် တင်းတင်းပတ်ထားသော ရော်ဗာအိတ်ထဲသို့ လေကို ထိုးသွင်း၏။ ယင်းသို့ လေထိုးသွင်းရာဝယ် လက်မောင်းရှိ သွေးလွှတ်ကြောများတွင် စီးနေသော သွေးများ ရပ်သွားသောအခါမှ လေသွင်းခြင်းကို ရပ်လိုက်သည်။ သွေးအစီး ရပ်သွားသောအခါ တိုင်းတာသည့် ပြဒါးချိန်သည် သွေးတိုးအားမည်မျှရှိသည်ကို ပြနေတော့၏။ ဤပြနေသော အမှတ်ကား နှလုံးကျုံ့ချိန်တွင် သွေးတိုးအား ပြသော အမှတ်ဖြစ်၍ ယင်းကို နှလုံးကျုံ့ချိန် သွေးတိုးအားဟု ခေါ်သည်။ နှလုံးပွချိန်တွင် သွေးတိုးအားပြသော အမှတ်ကိုမူ နှလုံးပွချိန် သွေးတိုးအားဟု ခေါ်သည်။ သွေးတိုးအားကို အတိအကျ တိုင်းတာလိုလျှင် ရော်ဗာအိတ်ထဲရှိ လေ၏ အတင်းအလျော့ကို လိုက်၍ သွေးလွှတ်ကြောများတွင် ဖြစ်ပေါ်လာသော အသံများကို နားကြပ်နှင့် နားထောင်ရန် လိုအပ်ပေသည်။ နှလုံးကျုံ့ချိန် သွေးတိုးအားကို အကြမ်းဖျင်း သတ်မှတ်ရန်အတွက် လက်ကောက်ဝတ်တွင် သွေးခုန်ခြင်း စမ်း၍ မရနိုင်သည့် အချိန်၌ တိုင်းတာသည့် ပြဒါးချိန်ပေါ်ရှိ အမှတ်ကို ယူနိုင်ပေသည်။ နှလုံးပွချိန် သွေးတိုးအားအတွက်မူ ပြဒါးချိန်၌ နှလုံးကျုံ့စဉ် ပြဒါးမတက်တော့သော အမှတ်ကို ယူနိုင်ပေသည်။

နှလုံးကျုံ့ချိန်နှင့် နှလုံးပွချိန် သွေးတိုးအားတို့ ခြားနားခြင်းကို သွေးခုန်အားဟု ခေါ်သည်။ လူကြီးတိုင်း၏ အခြေမှန် နှလုံးကျုံ့ချိန် သွေးတိုးအားသည် ၁၂၀ မီလီမီတာခန့်ရှိရာ ၁၅၀ မီလီမီတာထက် ကျော်လွန်သွားပါက မြင့်သည်၊ သို့မဟုတ် ပြင်းသည်ဟု ယူဆရသည်။ နှလုံးပွချိန် အခြေမှန် သွေးတိုးအားသည် နှလုံးကျုံ့ချိန် သွေးတိုးအား၏ သုံးပုံနှစ်ပုံခန့် ရှိသည်။ သို့သော် ၉၀ မီလီမီတာထက်ပိုသော နှလုံးပွချိန် သွေးတိုးအားမှန်သမျှကို မြင့်သည်ဟုပင် ယူဆရသည်။ သွေးတိုးအား ပြင်းခြင်း၏



လူတယောက်၏ သွေးတိုးအားကို တိုင်းတာရာ၌ ဆရာဝန်သုံး ပြဒါးချိန်ကို အသုံးပြုရသည်။

အကြောင်းရင်းကို တိတိကျကျ မသတ်မှတ်နိုင်သောအခါ လိုအပ်သော သွေးတိုးအား ပြင်းခြင်းဟု ခေါ်သည်။ တသမတ်တည်း သွေးတိုးအား ပြင်းရန်အတွက် နှလုံးသည် သာမန်ထက် အချိန်ပို အလုပ်လုပ်ရပေမည်။

လူတယောက်၏ သွေးတိုးအားသည် ကိုယ်အား စိတ်အား စိုက်ထုတ်မှု၊ စိတ်လှုပ်ရှားမှု၊ မောပန်းခြင်းနှင့် ဆေးလိပ်သောက်ခြင်း စသည်တို့ကြောင့် တနေ့နှင့်တနေ့၊ တနာရီနှင့်တနာရီမတူပဲ ပြောင်းလဲနိုင်ပေသည်။ ယေဘုယျအားဖြင့် အသက်ကြီးလာသည့်အခါ သွေးတိုးအား မြင့်လာတတ်သည်။ အဘယ်ကြောင့်ဆိုသော် သွေးလွှတ်ကြောများ၏ ရှန်းကန်သတ္တိနည်းလာမှုကို အကြောင်းပြု၍ သွေးစီးမှု နှေးလာခြင်းကြောင့် ဖြစ်သည်။ သွေးတိုးအားပြင်းခြင်းအတွက် စိတ်သောကဖြစ်နေလျှင်လည်း သွေးတိုးအားသည် ရှိသင့်သည်ထက် ပို၍ မြင့်တတ်ပေသည်။ အချို့သော သူများတွင် သွေးတိုးအား ပြင်းခြင်းသည် နှလုံးရပ်ခြင်း၊ လေသင်တုန်းထိခြင်းနှင့် ကျောက်ကပ်ရောဂါ စသည်များဖြစ်စေပြီးလျှင် လူကို သေစေနိုင်လေသည်။

သွေးတိုးအားနိမ့်ခြင်း၊ သို့မဟုတ် ပျော့ခြင်းသည် များသောအားဖြင့် စိုးရိမ်ရမည့် ရောဂါမဟုတ်ချေ။ နာတာရှည် ရောဂါသည်များနှင့် နာလှန်ထသူများသည် သွေးတိုးအားပျော့တတ်သော်လည်း ကျန်းမာလာသည့်အခါ မူလသွေးတိုးအားသို့ ပြန်ရောက်နိုင်ကြသည်။ ယေဘုယျအားဖြင့် သွေးတိုးအားပျော့ခြင်းသည် ကုစားရမည့် ရောဂါ မဟုတ်ချေ။

**သွင်၊ ဦး။ ဆာ** (မြန်မာ ၁၂၄၀–၁၃၂၇)။ ။ဦးသွင်ကို မြန်မာ သက္ကရာဇ် ၁၂၄၀ ပြည့်နှစ်(ခရစ်နှစ် ၁၈၇၈) နတ်တော်လပြည့်ကျော် ၅ ရက်နေ့တွင် အဖဦးဖန်၊အမိဒေါ်ယဉ်တို့မှ မော်လမြိုင်မြို့၌ ဖွားမြင်သည်။

ဦးသွင် အရွယ်ရောက်သောအခါ ရန်ကုန်ကောလိပ်တွင် ပညာသင်ကြားရာ ခရစ်နှစ် ၁၉၀၁ ခုတွင် အက် (ဖ)အေ စာမေးပွဲကို ဖြေဆို အောင်မြင်ခဲ့၏။ ထို့နောက် အစိုးရ ပညာရေးဌာနသို့ ဝင်ရောက်ကာ ပညာအုပ်အဖြစ် အမှုထမ်းခဲ့သည်။ ၁၉၀၂ ခုနှစ်တွင် ပညာအုပ် အလုပ်မှ နုတ်ထွက်ပြီးနောက် မော်လမြိုင်မြို့တွင် ဆန်စက် ပိုင်ရှင်အဖြစ်ဖြင့်၎င်း၊ လျှပ်စစ်ဓာတ်အား ကုမ္ပဏီပိုင်ရှင်အဖြစ်ဖြင့်၎င်း စီးပွားရေး လုပ်ငန်းများကို လုပ်ကိုင် ဆောင်ရွက်ခဲ့သည်။ မြန်မာနိုင်ငံ အမျိုးသား အာမခံ ကုမ္ပဏီလီမိတက်၏ အုပ်ချုပ်သူ လူကြီးများ အဖွဲ့တွင်လည်း ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ခဲ့သည်။

ရန်ကုန်မြို့၌ ၁၉၁၁ ခုနှစ်တွင် သူရိယ သတင်းစာတိုက်ကို စတင် တည်ထောင်သောအခါ ဦးသွင်သည် သတင်းစာတိုက် တည်ထောင်သူများတွင် တဦး အပါအဝင်ဖြစ်သည့်အပြင် သူရိယသတင်းစာတိုက် အုပ်ချုပ်သူ လူကြီးများအဖွဲ့၏ ပဌမဆုံး ဥက္ကဋ္ဌအဖြစ်လည်း ရွေးချယ်တင်မြှောက်ခြင်း ခံခဲ့ရပေသည်။ ထိုပြင် ၁၉၂၄ ခုနှစ်မှ ၁၉၄၁ ခုနှစ်အတွင်း ရန်ကုန်ဆိပ်ကမ်းအုပ်ချုပ်ရေးအဖွဲ့တွင် အဖွဲ့ဝင်၊ ရန်ကုန် စည်ပင်သာယာရေးအဖွဲ့တွင် အဖွဲ့ဝင်၊ မြန်မာပြည် ဗိလတ်မြေ ကုမ္ပဏီလီမိတက်၏ အုပ်ချုပ်သူ လူကြီး၊ မြန်မာပြည်ဆိုင်ရာ အိန္ဒိယသီးသန့်ဘဏ်လီမိတက်၏ အုပ်ချုပ်သူ လူကြီး၊ မြန်မာပြည်ကုန်သည်ကြီးများအသင်း၏ ဥက္ကဋ္ဌ စသည့် တာဝန်များကိုလည်း ထမ်းဆောင်ခဲ့ပေသည်။ မြန်မာပြည် ဥပဒေပြုလွှတ်တော် အထက်လွှတ်တော် အမတ် (၁၉၃၇–၄၁) အဖြစ်လည်း ရွေးကောက်တင်မြှောက်ခြင်း ခံခဲ့ရ၏။

ဦးသွင်သည် စီးပွား ကုန်သွယ်မှု လုပ်ငန်းများတွင် ကျွမ်းကျင်သူဖြစ်၍မြန်မာလူမျိုးကုန်သည်တို့၏ ဦးစီးဦးကိုင် ပုဂ္ဂိုလ်ကြီးဖြစ်ခဲ့ပေသည်။ မြန်မာလူမျိုးတို့သည် ကုန်သွယ် ဖောက်ကားခြင်းအမှု၌ထိုးထွင်းဉာဏ်ထက်သန်ခြင်းမရှိဟူ၍ ၎င်း၊ စွမ်းစွမ်းတမံလုပ်ကိုင်ဆောင်ရွက်နိုင်ခြင်း မရှိဟူ၍၎င်း နိုင်ငံခြားသားတို့က အထင်သေးခဲ့ကြရာ ဦးသွင်၏ ဆောင်ရွက်ချက်များက ထိုအထင်သေးမှုကို ပျက်ပြားစေခဲ့သည်။

ဦးသွင်သည် ၁၉၄၁ ခုနှစ်တွင် ဗြိတိသျှ အစိုးရက ချီးမြှင့်ခဲ့သော ဆာဘွဲ့ကို ရရှိခဲ့သဖြင့် ဆာဦးသွင်ဟူ၍ ထင်ရှားလေသည်။ ဦးသွင် ဆာဘွဲ့ရရှိခြင်းမှာ ဗြိတိသျှ အစိုးရအမှုကို ကျိုးနွံစွာ ထမ်းဆောင်ခဲ့ခြင်းကြောင့်မဟုတ်။ ဗြိတိသျှအစိုးရ၏ အထူးထူးသော ကျေးဇူးဂုဏ်ကို တိုးပွားအောင် ဆောင်ရွက်ခြင်းကြောင့်လည်း မဟုတ်ပေ။ တိုင်းသူပြည်သားတို့၏ အားထားယုံကြည်ခြင်းကိုခံယူရရှိခြင်း၊သစ္စာသမာဓိနှင့် ပြည့်စုံခြင်း၊ အဂတိတရား လေးပါး မလိုက်စားခြင်း စသည့် ဂုဏ်ပုဒ်များကို လေးစား အသိအမှတ်ပြုသောအားဖြင့် ဦးသွင်ကို ဗြိတိသျှအစိုးရက ဆာဘွဲ့ပေးအပ်ခဲ့ခြင်း ဖြစ်၏။

ဦးသွင်သည် ၁၉၁၀ ပြည့်နှစ်ခန့်မှစ၍ ဝံသာနု လုပ်ငန်းများတွင်လည်း ပါဝင်ဆောင်ရွက်ခဲ့ပေသည်။ မြန်မာပြည်ဘွင် အစိုးရ အရာရှိများကို ရှိခိုး ဦးနှိမ်ရသော အလေ့၊ အစိုးရ အရာရှိတို့ ရှေ့မှောက်တွင် ဖိနပ်ချွတ်ရသော အလေ့ စသည် အလေ့ဆိုးများကို ပပျောက်အောင် ခုခံ တိုက်ခိုက်ခဲ့၏။ မြန်မာ နိုင်ငံလုံးဆိုင်ရာ ကျောင်းသား သပိတ်ကြီး ဖြစ်ပွားစဉ်ကလည်း နှစ်ဦး နှစ်ဖက် တင်းမာလျက်ရှိသော အခြေအနေကို ဦးသွင်ကိုယ်တိုင် စေ့စပ်ဖြန်ဖြေ၍ ငြိမ်းအေးစေခဲ့ပေသည်။



သတိုး သီရိသုဓမ္မ ဆာ ဦးသွင်

ဦးသွင်သည် ရန်ကုန်မြို့အတွင်းဝန်များရုံးကို ကျောင်းသားတို့ ဝိုင်းဝန်းကြသည့် အရေးအခင်းတွင် ကျောင်းသားများကို ပုလိပ်တို့ ရိုက်နှက်သည့်အမှု စုံစမ်းရေးကော်မီတီတွင်၎င်း၊ အစိုးရအမှုထမ်းတို့ လပ်စားမှု ကော်မီတီတွင်၎င်း၊ ရန်ကုန်တက္ကသိုလ် ထောက်ပံ့ရေးအဖွဲ့တွင်၎င်း၊ မြန်မာနိုင်ငံ အဆုတ်ရောဂါနှင့် အနာကြီးရောဂါ ပပျောက်ရေးအသင်းတွင်၎င်း ပါဝင်ကာ တိုင်းပြည်၏ အကျိုးကို သည်ပိုး ရွက်ဆောင်ခဲ့ပေသည်။ ၁၉၁၄ ခုနှစ်တွင် ပဌမ ကမ္ဘာစစ်အတွင်းက မြန်မာပြည် အစိုးရသည် ဆန်စပါး ရောင်းဝယ်ရေးကို ချုပ်ကိုင်လိုက်ရာ၌ ဥရောပတိုက်သား ဆန်စက်ပိုင်ရှင်ကြီးများသာ အကျိုးခံစားခွင့် ရကြလေရာ ဦးသွင်သည် ဆန်စက်ပိုင်ရှင်များအသင်းကို တည်ထောင်ပြီးလျှင် အစိုးရကို အတိုက်အခံပြုခဲ့၏။ထိုသို့ဆောင်ရွက်ခဲ့ခြင်းကြောင့် မြန်မာ့ တောင်သူလယ်သမားတို့ အကျိုးခံစားခဲ့ကြရပေသည်။ ဦးသွင်သည် မြန်မာပြည်၏ ပဌမဆုံး နိုင်ငံရေး အသင်းကြီးဖြစ်သော မြန်မာပြည် သဟာယအသင်းကို စတင် တည်ထောင်သူဖြစ်၍ အသင်း၏ ပဌမဆုံး ဥက္ကဋ္ဌအဖြစ်လည်း ဆောင်ရွက်ခဲ့၏။ ၁၉၃၇ ခုနှစ်တွင် ကျင်းပသော ဆဋ္ဌမမြောက် ဂျော့ဘုရင်၏ ဘိသိက်ပွဲသို့ တက်ရောက်ရန်အတွက် ဦးသွင်သည် အစိုးရအရာရှိမဟုတ်သူ ကိုယ်စားလှယ်အဖြစ် ရွေးချယ်ခြင်း ခံခဲ့ရပေသည်။

ဆာဦးသွင်သည် ဘာသာရေး လုပ်ငန်းများကိုလည်း အားပေး ဆောင်ရွက်ခဲ့၏။ ရွှေတိဂုံစေတီတော်၏ ဘဏ္ဍာတော်ထိန်းလူကြီး တဦးဖြစ်သည်သာမက မဟာဗောဓိအသင်း၏ ဒုတိယ ဥက္ကဋ္ဌအဖြစ်လည်း ဆောင်ရွက်ခဲ့ပေသည်။ အိန္ဒိယနိုင်ငံ ဗာရာဏသီ၊ မိဂဒါဝုန်၌ ဓမ္မာရုံ တည်ဆောက်

လှူဒါန်းခြင်း၊ ဂျပန်နိုင်ငံ မိုဂျိမြို့ရှိ ကမ္ဘာ့အေးစေတီတော် အတွက် စိန်ဖူးတော် လှူဒါန်းခြင်း စသည့် နိုင်ငံခြား သာသနာပြု လုပ်ငန်းများကိုလည်း လုပ်ကိုင်ခဲ့သည်။

မြန်မာနိုင်ငံ လွတ်လပ်ရေးရရှိပြီးနောက်တွင် ဦးသွင်သည် ဆဋ္ဌသင်္ဂါယနာ ဖြစ်မြောက်ရေးအဖွဲ့၊ မြန်မာနိုင်ငံ ဗုဒ္ဓသာသနာ့ကောင်စီ၊ တိပိဋကဓရ ရွေးချယ်ရေးအဖွဲ့ စသည်တို့တွင် ပါဝင်ကာ သာသနာရေးရာ တာဝန်များကို ထမ်းဆောင်ခဲ့သည်။ ၁၉၅၀ ပြည့်နှစ်တွင် သတိုးသီရိသုဓမ္မ ဘွဲ့ကို ရရှိခဲ့၏။

သတိုးသီရိသုဓမ္မဆာဦးသွင်သည်အသက်၇၇နှစ်အရွယ် ၁၃၂၇ ခုနှစ် တပို့တွဲလဆန်း ၁၂ ရက်၊ ၁၉၆၇ ခုနှစ် ဖေဖော်ဝါရီလ ၂၂ ရက်နေ့တွင် ရန်ကုန်မြို့၌ ကွယ်လွန်ခဲ့လေသည်။

**သွပ်။** ။သွပ်ကို လူတိုင်းပင် ကြားဘူး မြင်ဘူးကြပေသည်။ သို့သော် ကြားဘူး မြင်ဘူးကြသလောက် သွပ်အကြောင်းကို သေသေချာချာ သိရှိသူ နည်းပါးလှ၏။ သွပ် စစ်စစ်သည် ဖြူပြာပြာ အဆင်းရှိ၍ မျက်နှာပြင် တောက်ပသော သတ္တုတမျိုးဖြစ်၏။ သွပ်သည် ဆတ်၍ ချိုးဖဲ့လိုက်သည့်အခါ တောက်ပသော အပိုင်းအစများကို ရရှိသည်။ သွပ်ကို မီးပြင်းတိုက်၍ ကျိုလိုက်သောအခါ ၇၈၇ ဒီဂရီ ဖာရင်ဟိုက် အပူချိန်တွင် အရည်ပျော်၍ အပူချိန် ၁၇၀၆ ဒီဂရီ ဖာရင်ဟိုက်တွင် ဆူပွက်၏။ သွပ်ကို သယံဇာတအဖြစ်ဖြင့် တူးဖော်၍ မရနိုင်သော်လည်း သွပ်သတ္တုရိုင်းများဖြစ်သော ဇင့်ကိုက်နှင့် ဖရန်ကလင်နိုက်ခေါ် ဇင့်အောက်ဆိုက်များ၊ ကယ်လမိုင်းခေါ် ဇင့်ကာဗွန်နိတ်နှင့် ဇင့်ဗလင်းခေါ် ဇင့်ဆာလဖိုဒ် စသော ဒြပ်ပေါင်းတို့မှ အမြောက်အမြား ထုတ်ယူရရှိလေသည်။ ရောင်းချရန် သွပ်ကို သတ္တုရိုင်းများမှ အမြောက်အမြား ထုတ်ယူပုံမှာ ပဌမ ဇင့်ကာဗွန်နိတ်( $Z_nCO_3$ )ကိုဖြစ်စေ၊ ဇင့်ဆာလဖိုဒ် ( $Z_nS$ )ကိုဖြစ်စေ ဒယ်တွင် ထည့်၍ မီးပြင်း တိုက်ကာ လှော်ပေး၏။ ထိုသို့ လှော်ပေးသောအခါ သွပ်သတ္တုရိုင်းသည် ဇင့်အောက်ဆိုက်အဖြစ်သို့ ပြောင်းလဲသွား၏။



$$Z_nCO_3 = Z_nO + CO_2$$

ဇင့်ကာဗွန်နိတ် = ဇင့်အောက်ဆိုက် + ကာဗွန်ဒိုင်အောက်ဆိုက်

ရရှိသော ဇင့်အောက်ဆိုက်( $Z_nO$ ) မှုန့်များကို မီးသင်းပြီး ကျောက်မီးသွေး မှုန့်များနှင့် ရော၍ မီးခံရွှံ့စေးဖြင့် ပြုလုပ်ထားသော ပေါင်းအိုးတွင် ထည့်ပြီးလျှင် ရဲလာအောင် မီးပြင်း တိုက်ပေးရ၏။ ထိုအခါ ဇင့်အောက်ဆိုက်မှ အောက်ဆီဂျင်နှင့် ကာဗွန်တို့ ပေါင်းစပ်ပြီးလျှင် ကာဗွန်မွန်နိအောက်ဆိုက် ( CO )ဓာတ်ငွေ့အဖြစ်ဖြင့် ထွက်သွားသည့်အတွက် သွပ်သက်သက် ကျန်နေခဲ့၏။ ထိုကျန်နေသော သွပ်သည် အငွေ့အဖြစ်ဖြင့် ထွက်လာသဖြင့် ပေါင်းချေးခံနည်းဖြင့် ခံယူလိုက်သည်တွင် သွပ်အတုံးများကို ရရှိသည်။



$$Z_nO + C = Z_n + CO$$

ဇင့်အောက်ဆိုက် + ကာဗွန် = ဇင့် + ကာဗွန်မွန်နိအောက်ဆိုက်

သွပ်အကြီးအကျယ်ထွက်သော နိုင်ငံများမှာ ဂျာမနီ၊ ဩစတြေးလီးယား၊ ဆာဒင်းနီးယား၊ ပြင်သစ်၊ ကနေဒါ၊ ပိုလန်၊ ဗဲလဂျီယမ်နှင့် အမေရိကန်ပြည်ထောင်စုတို့ ဖြစ်ကြ၏။ မြန်မာနိုင်ငံ၌လည်း ဘော်တွင်းမှ အနည်းအကျဉ်း ထွက်၏။ သွပ်သည် လေထဲတွင်၎င်း၊ ရေထဲတွင်၎င်း ချေးမတက်နိုင်သောကြောင့် သံပြားများ သံချေးမတက်နိုင်စေခြင်းငှာ သွပ်ရည်ကို သုတ်လိမ်းထားပေးရ၏။ သွပ်ရည် သုတ်လိမ်းပုံမှာ သံပြားများကို အရည်ကျိုထားသော သွပ်ရည်ထဲသို့ နှစ်လိုက်ပြီးနောက် ပြန်၍ ဆွဲတင်ယူလိုက်ရ၏။ လျှပ်စစ် ဓာတ်အိုးများတွင်၎င်း၊ ဓာတ်ပုံ ဗလောက်များတွင်၎င်း၊ သတ္တုများ သွန်းရာတွင်၎င်း သွပ်ကို များစွာ အသုံးပြုကြ၏။ သွပ်နှင့် ကြေးနီရောစပ်ထားသော ဗရပ်ခေါ် ကြေးဝါသတ္တုစပ်သည် အလွန်အသုံးဝင်၏။ အခြားသွပ်ပါသော သတ္တုစပ်တမျိုးမှာ ဂျာမန်ငွေ (ကြေးနီ၊ သွပ်နှင့် နစ်ကယ်)ဖြစ်၏။ ရွှေနှင့်ငွေတို့ကို သတ္တုရိုင်းများမှ ထုတ်ယူရာ၌လည်း သွပ်ကို အသုံးပြုကြသေး၏။ ဇင့်ကာဗွန်နိတ်၊ ဇင့်အက်ဆီတိတ်၊ ဇင့်စတီရာရိတ် စသော သွပ်ဒြပ်ပေါင်းများသည် ဘယဆေးများ ဖော်စပ် လုပ်ကိုင်ရာ၌ အသုံးကျ၏။ သွပ်နှင့် ကြေးနီ ရောစပ်ထားသော ကြေးဝါ သတ္တုစပ်ကို ယမ်းတောင့်များ၊ ဖုံးခွံများနှင့် အခြား စစ်ဖက်ဆိုင်ရာ ပစ္စည်းများ ပြုလုပ်ရာ၌ များစွာ အသုံးပြုကြသည့်ပြင် သိပ္ပံကရိယာ တန်ဆာပလာများ ပြုလုပ်ရာ၌လည်း အသုံးပြုကြ၏။ ထို့ကြောင့် စစ်အတွင်းတွင် သွပ်ကို အတိုင်းတိုင်းအပြည်ပြည်မှ များစွာ စုဆောင်းသိုလှောင်ထားကြရလေသည်။

သွပ်ကို အလယ်ခေတ်လောကတွင် ဂျော့ဂျီယပ် အဂရစ်ကိုလာ အမည်ရှိ ဂျာမန် အဂ္ဂိရတ် ဆရာကြီး တဦးက သတ္တုရိုင်းများကို ဖိုကြီးများတွင်ထည့်၍ ကျိုရာမှ ပဌမစတင် တွေ့ရှိလေသည်။ ထိုအချိန်မှစ၍ ဓား လှံ စသော လက်နက်များ၊ စစ်သည်တော်သားများနှင့် သူရဲကောင်းများ တပ်ဆင်ကြသည့် ကကြိုးတန်ဆာများ ပြုလုပ်ရာတွင် သွပ်ကို အသုံးပြုခဲ့ကြလေသည်။ ဈေးဆိုင်များတွင် ရောင်းချသော သွပ်မှာ သွပ်စစ်စစ် မဟုတ်ချေ။ သံ၊ ခဲ၊ စိန်ဖြူ၊ ကာဗွန် စသော ပစ္စည်းများ အနည်းအကျဉ်း ပါဝင်လျက်ရှိ၏။ သွပ်စစ်စစ်ကို လိုသော် ဇင့်ဆာလဖိတ်ရည်ကို လျှပ်စစ်ဓာတ်ခွဲနည်းဖြင့် ထုတ်ယူနိုင်လေသည်။



မြန်မာဗျည်း ၃၃ လုံးတွင် ဟ သည် ၃၁ ခုမြောက် အက္ခရာဖြစ်သည်။ ယ၊ ရ၊ လ၊ ဝ၊ သ၊ ဟ၊ ဠ၊ အ ဟူသော အဝဂ်တွင် ပါဝင်၍ ဟ အသံ၏ဖြစ်ရာဌာနမှာ ကဏ္ဍဌာန် လည်ချောင်းအရပ်ဖြစ်သည်။ ဟ ကို ဟဟူ၍ပင် အသံထွက်သည်။ ဟ အရေးအသား၏ မူလမှာ ဗြာဟ္မီအက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့် ပေစာများတွင် ဟု ရေးသားသည်ကို တွေ့ရသည်။ ဗြာဟ္မီအရေးအသား တွင် လက်ဝဲဖက်ထိပ်စွန်းနှင့် လက်ျာဖက်ထိပ်စွန်းကို ညီညာစွာတိပြီးနောက်၊ လက်ျာဖက်အစွန်းကို အောက်သို့ ဖြောင့်တန်းစွာဆွဲချ၍ အတွင်းဖက်သို့ ခပ်ကွေးကွေးရေးသောအခါ မြန်မာအက္ခရာ ဟ ဖြစ်ပေါ်လာသည်။ ဟ အက္ခရာ၏ အဆင့်ဆင့် ဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်းယှဉ်တွဲ၍ ပြထားသည်။

**ဟန္တိုင်မြို့။** ။ဟန္တိုင်မြို့သည် ယခင်က ပြင်သစ် အင်ဒိုချိုင်းနားပြည်၏ မြို့တော်ဖြစ်ခဲ့၍ ၁၉၅၄ ခုနှစ်တွင် ပြုလုပ်သော တိုက်ခိုက်မှု ရပ်စဲရေး သဘောတူညီချက် အရ ကွန်မြူနစ် ဗီယက်မင်း အစိုးရ အုပ်ချုပ်သော မြောက်ဗီယက်နမ် နိုင်ငံ၏ မြို့တော် ဖြစ်လာသည်။ ထိုမြို့သည် မြစ်နီမြစ်ဝမှ အတွင်းဖက် မိုင် ၉၀ ခန့် အကွာ မြစ်၏ လက်ျာဖက်ကမ်းပေါ်တွင် တည်ရှိသည်။ မြစ်တွင်းသွား သင်္ဘောငယ်များသည် ဟန္တိုင်မြို့နှင့် ဟိုင်ဖုံမြို့ အကြား သွားလာ ခုတ်မောင်းလျက် ရှိကြသည်။ ဟန္တိုင်မြို့သည် ကူးသန်းရောင်းဝယ်ရေးတွင် အရေးကြီးသော ဗဟိုဌာန ဖြစ်သဖြင့် ဟိုင်ဖုံမြို့နှင့်၎င်း၊ တရုပ်နိုင်ငံ၏ အနောက် တောင်ဖက်ရှိ ကွန်မင်းမြို့နှင့်၎င်း မီးရထားလမ်းများဖြင့် ဆက်သွယ်ထားလေသည်။ ဟန္တိုင်မြို့မှ တင်ပို့သော ကုန်များတွင် ဆန်၊ ပိုးခြည်ထိုးထည်များနှင့် မီးခြစ်များ ပါဝင်သည်။ ပြင်သစ် နယ်ချဲ့သမားများက ဟန္တိုင်မြို့ရှိ လမ်းများ ချဲ့ထွင်ထားကြရုံမက အဆောက်အအုံသစ်များ ကိုလည်း ဆောက်လုပ်ထားကြလေသည်။

၁၉၆၉ ခုနှစ် ခန့်မှန်းသန်ကောင်စာရင်းအရ ဟန္တိုင်မြို့၏ လူဦးရေမှာ ၈၀၀,၀၀၀ ခန့် ဖြစ်သည်။

**ဟရန်သီယို၊ ဗိုလ်မှူးကြီး**(ခရစ် ၁၉၁၉—၁၉၄၉)။ ။ ဗိုလ်မှူးကြီး ဟရန်သီယိုသည် ၁၉၄၉ ခုနှစ် ဩဂုတ်လ တွင် မှော်ဘီ ထန်းတပင်နယ်၌ သောင်းကျန်းသူတို့ကို တိုက်ခိုက် နှိမ်နင်းစဉ် ပြည်ထောင်စုကြီး၏ ဝန်ကို သက်စွန့်ကြိုးပမ်း ထမ်းရွက်ရင်း ရရှိသည့် ဒဏ်ချက်ဖြင့် ထိုနှစ် ဩဂုတ်လ ၈ ရက်နေ့တွင် မြန်မာနိုင်ငံတော် စစ်ဆေးရုံ၌ ကွယ်လွန်လေသည်။ ဗိုလ်မှူးကြီးကား ချင်း အမျိုးသား ဖြစ်၍ စစ်ဖက်တွင် ထူးချွန်စွာ ထမ်းရွက်ခဲ့သူ ဖြစ်၏။ ၁၉၁၉ ခုနှစ် မတ်လ ၁၅ ရက်နေ့တွင် ဖလမ်းနယ် လယ်ဇိုး၌ ဖွားမြင်၍ ဖလမ်းမြို့ အစိုးရ အထက်တန်းကျောင်းတွင် ပညာသင်ကြားခဲ့သည်။ အသက် ၂၀ အရွယ်၌ကား ဘားမားရိုင်ဖယ် တပ်ရင်း ၂ သို့ ဝင်ရောက်ခဲ့၍ မကြာမီ တပ်ကြပ် ဖြစ်လာလေသည်။

စစ်မှုကို ၁၀ နှစ် ထမ်းရွက်ခဲ့သည့်အနက် ခုနစ်နှစ်ကျော်မှာ စစ်မြေပြင် တိုက်ပွဲများတွင် ထမ်းရွက်ခဲ့ရလေသည်။ ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း ၁၉၄၄—၄၅ ခုနှစ်၌ ပဌမ မြန်မာနိုင်ငံ တိုက်ပွဲတွင် စစ်မှုထမ်းရွက်ခဲ့၏။ ၁၉၄၆ ခုနှစ်တွင် ရွှေဘိုနယ်၌ ထမ်းရွက်ခဲ့၏။ ၁၉၄၇—၄၈ ခုနှစ်တွင် ရခိုင်တိုင်း၌ ထမ်းရွက်ခဲ့၏။ ၁၉၄၈—၄၉ ခုနှစ်တွင် ပဲခူးနယ်၌ ထမ်းရွက်ခဲ့၏။ ၁၉၄၉ ခုနှစ် မေလမှ ဖေဖွာရီလ အထိ အင်းစိန်တွင် ထမ်းရွက်ခဲ့ပြီးနောက် နောက်ဆုံး မှော်ဘီ ထန်းတပင်နယ်တွင် ထမ်းရွက်နေစဉ် အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း တိုက်ပွဲတွင် ဒဏ်ရာရရှိလေသည်။

ဗိုလ်မှူးကြီး ဟရန်သီယိုသည် မြန်မာပြည် သူရဲကောင်း တံဆိပ်ရသူ ဖြစ်၏။ သူသည် ၁၉၄၃ ခုနှစ်တွင် ဘုရင်ခံ အမိန့်တော်ခန့် စစ်ဗိုလ်ရာထူး ရရှိ၍ နောက်တနှစ်တွင် ဘုရင့်စာချွန်တော်ခန့် ရာထူးကို ရရှိပြီးလျှင် နောက်တနှစ် စက်တင်ဘာလထဲတွင် ဗိုလ်မှူးရာထူးသို့ တိုးမြှင့်ခန့်ထားခြင်းခံရလေသည်။ အင်္ဂလန်နိုင်ငံသို့ သွားရောက် စစ်ပညာကို ဆက်လက် သင်ကြားပြီးလျှင် ၁၉၄၇ ခုနှစ် ဒီဇင်ဘာလ တွင် မြန်မာနိုင်ငံသို့ ပြန်ရောက်လာရာ ဒု ဗိုလ်မှူးကြီး ရာထူးသို့ တိုးမြှင့်၍ ချင်း ရိုင်ဖယ်တပ်ရင်း ၁ တပ်မှူး



စစ်ဖက်တွင်သာမက အားကစားဖက်တွင်ပါ ထူးချွန်သူ ချင်းအမျိုးသား ဗိုလ်မှူးကြီး ဟရန်သီယို

ရာထူးတွင် ခန့်ထားခြင်း ခံရလေသည်။ ပြည်ထောင်စု မြန်မာနိုင်ငံ လွတ်လပ်ရေး ရပြီးနောက် မြန်မာ့ တပ်မတော် ချင်း လက်နက်ကိုင် တပ်ရင်း ၁ ကို ဗိုလ်မှူးကြီး အဖြစ်ဖြင့် အုပ်ချုပ် ထမ်းရွက်ခဲ့သည်။

ဗိုလ်မှူးကြီး ဟရန်သီယိုသည် အားကစားဖက်၌ အထူး ထက်သန်၏။ ဘောလုံး ကစားခြင်းတွင် ထူးချွန်၏။ သဘောထားကြီး၏။ ရိုးသားဖြောင့်မတ်၏။ ဟုတ်ရာမှန်ရာကိုရဲရဲရင့်ရင့်ပြောတတ်လုပ်တတ်၏။လူအပေါင်းနှင့်သာယာဖော်ရွေစွာ ဆက်ဆံတတ်သဖြင့် လူချစ်လူခင် ပေါမျာ၏။ ဗိုလ်မှူးကြီးဟရန်သီယိုကွယ်လွန်ခြင်းကား ချင်းအမျိုးသားတို့အတွက်သာ မဟုတ်ပဲ ပြည်ထောင်စုသား အားလုံး အတွက်လည်း ဆုံးရှုံးရခြင်းပင် ဖြစ်သည် ဟု ဆိုရပေမည်။

**ဟဝိုင်းယန်းကျွန်းစု။** ။ ဟဝိုင်းယန်း ကျွန်းစုသည် ပစိဖိတ်သမုဒ္ဒရာတွင်း၌ တည်ရှိ၍ အမေရိကန်ပြည်ထောင်စု ဝင် ပြည်နယ် တနယ်လည်း ဖြစ်သည်။ အရှေ့ဖက်ရှိ မြောက်အမေရိကတိုက်မှရင်း၊ အနောက်ဖက်ရှိ အာရှတိုက်မှရင်း မိုင် ၂,၀၀၀ ကျော်စီ ကွာဝေးသည်။ အကြမ်းအားဖြင့် အနောက်လောင်ဂျီတွဒ် ၁၅၄ ၄၀'မှ ၁၆၂ အတွင်းနှင့် မြောက်လတ္တီတွဒ် ၁၈ ၅၅'မှ ၂၃ အတွင်း တည်ရှိလေသည်။

ဟဝိုင်းယန်းကျွန်းစုတွင် ကျွန်းပေါင်း ၂၀ ကျော် ပါဝင်၍ ရေပြင်၌ ပေ ၁,၉၀၀ ကျော် တန်းလျက်တည်ရှိသည်။ လူနေအိမ်ခြေရှိ၍ အကြီးမားဆုံးသော ကျွန်းများမှာ ရှစ်ကျွန်းသာ ဖြစ်သည်။ ယင်းကျွန်းကြီး ရှစ်ကျွန်း၏အမည်နှင့် အကျယ်အဝန်းမှာ အောက်ပါအတိုင်း ဖြစ်သည်။

| ကျွန်းအမည် | အရှည် | အကျယ် | အကျယ်အဝန်း |
|---|---|---|---|
| ဟဝိုင်းအီးကျွန်း | ၉၃ မိုင် | ၇၆ မိုင် | ၄၀၃၀ စတုရန်း မိုင် |
| မာအူးအီးကျွန်း | ၄၈ ။ | ၂၆ ။ | ၇၂၈ ။ |
| အိုအားဟူးကျွန်း | ၄၄ ။ | ၃၀ ။ | ၆၀၄ ။ |
| ကာအူးအီးကျွန်း | ၃၃ ။ | ၂၅ ။ | ၅၅၅ ။ |
| မိုလိုကာအီးကျွန်း | ၃၈ ။ | ၁၀ ။ | ၂၆၀ ။ |
| လာနာအီးကျွန်း | ၁၈ ။ | ၁၃ ။ | ၁၄၁ ။ |
| နီအီးဟအူးကျွန်း | ၁၈ ။ | ၆ ။ | ၇၂ ။ |
| ကာဟူးလာဝီး ကျွန်း | ၁၁ ။ | ၆ ။ | ၄၅ ။ |

ကျန်ကျွန်းများမှာ အနောက်မြောက်ဖက်ရှိ မစ်ဒဝေး ကျွန်း၊ နီဟိုးအားကျွန်း၊ နက္ကာကျွန်း၊ လေစန်ကျွန်း၊ ကူးရေးကျွန်း စသည်တို့နှင့် တောင်ဖက်ရှိ ပယ်မိုင်းရားကျွန်း နှင့် ဂျွန်စတန်ကျွန်းတို့ ဖြစ်ကြသည်။ ကျွန်းကြီးရှစ်ကျွန်း၏ မြေပြင် အကျယ်အဝန်းမှာ ၆,၄၃၅ စတုရန်းမိုင် ရှိ၍၊ ကျန်ကျွန်းများ၏ အကျယ်အဝန်းမှာ သုံးစတုရန်းမိုင်ပင် မပြည့်ချေ။ ထိုကြောင့် ဟဝိုင်းယန်းကျွန်း၏ စုစုပေါင်း အကျယ်အဝန်းသည် ၆,၄၃၈ စတုရန်းမိုင်ရှိ၍ တောင်ငူခရိုင်နှင့် ဟံသာဝတီခရိုင် နှစ်ရပ်ပေါင်း၏ အကျယ်အဝန်း ခန့် ရှိလေသည်။

ဟဝိုင်းယန်းကျွန်းများကိုသိပ္ပံပညာရှင်များက အစုသုံးစုခွဲကြသည်။ (၁)အရှေ့တောင်ဖက်ရှိ ကျွန်းမကြီးရှစ်ကျွန်း (၂) အလယ်ပိုင်းရှိ ကျောက်ဆောင်အတိဖြစ်သော ကျွန်းကလေးများ၊ (၃) အနောက်မြောက်ဖက်ရှိ သန္တာနှင့် သဲကျွန်းများ ဖြစ်သည်။ ကျွန်းအားလုံးသည် သမုဒ္ဒရာ ပြင်ထက် ထိုးတက်လာသော မီးတောင်များ ဖြစ်သည်ဟု လည်း အယူရှိကြ၍ သမုဒ္ဒရာရေစီးကြောင်းများ၊ လှိုင်းတံပိုးများ ရိုက်ခတ်တိုက်စားသဖြင့် အချို့တောင်များသည် သန္တာကျွန်းခွေနှင့် ကျောက်ခက်တန်းများ သဖွယ် သမုဒ္ဒရာရေပြင်ပေါ်တွင် ပေါလောပေါ်လျက် ရှိကြသည်။

ဟဝိုင်းယန်းကျွန်းစုတွင် မီးတောင် ၄၀ ခန့် ရှိသည့် အနက် မာအူးနားလိုအားနှင့် ကီလာအူးအား ခေါ် မီးရှင်တောင် နှစ်လုံးရှိသည်။ မီးတောင်နှစ်လုံးစလုံး ဟဝိုင်းအီး

ကျွန်းပေါ်တွင် ရှိ၍ နှစ်အနည်းငယ်မျှသာ ခြားလျက် မကြာမကြာ ပေါက်ကွဲလေ့ရှိသည်။ ယင်းသို့ မီးတောင် ပေါက်၍ ချော်ရည်များ သမုဒ္ဒရာထဲ စီးဆင်းခြင်းဖြင့် ကျွန်းသည်လည်း တဖြည်းဖြည်း တိုးတက် ကျယ်ဝန်း လာသည်။ မာအူးနားလိုအား မီးတောင်သည် ကမ္ဘာ ပေါ်တွင် အကြီးဆုံး မီးတောင်နှင့် ထုထယ်အကြီးဆုံး တောင်ဖြစ်သည်။ ကီလာအူးအား မီးတောင်မူကား ကမ္ဘာ ပေါ်တွင် မီးတောင်ထိပ်ဝ အချိုင့်အကြီးဆုံး မီးတောင် ဖြစ်သည်။ မာအူးအီးကျွန်းပေါ်ရှိ ဟာလီအာကာလာ မီးတောင်မှာမူ မီးသေတောင်ဖြစ်၍ မီးတောင်ထိပ်ဝသည် စတုရန်းမိုင် ၂၀ ကျယ်ရကား ကမ္ဘာပေါ်ရှိမီးသေတောင်များ အနက်အကြီးဆုံးထိပ်ဝချိုင့်ရှိသောမီးသေတောင်ဖြစ်သည်။

ဟဝိုင်းယန်း ကျွန်းများသည် ပင်လယ်ရေမျက်နှာပြင် အောက် ပေ ၁၅,၀၀၀ မှ ပေ ၁၈,၀၀၀ အထိ ရှိသော အောက်ခြေတွင် မီးတောင်များ အဆင့်ဆင့် ပေါက်ကွဲ စတင်ဖြစ်ပေါ်လာ၍ ကျွန်းမြေပြင်များသည်လည်း တောင် ထူထပ်သည်။ အမြင့်ဆုံး တောင်ထိပ်မှာ မာအူးနားကီးအား တောင်ဖြစ်၍ ၁၃,၇၇၈,၄၀၀ မြင့်သည်။ မြေမျက်နှာပြင် သည် ချော်မြေဖြင့်ပြီးရကား နိုက်ထရိုဂျင်ဓာတ် ပေါ်ကြွယ် ဝသည်။ သို့ရာတွင် ကျောက်မီးသွေးစသော ဓာတ်သတ္တု များကိုကား မတွေ့ရချေ။ မအူးနားလိုအား၊ ကီလာအူး အားနှင့် မာလီအားကာကား မီးတောင်များ တဝိုက်၌ ၁၇၃,၄၀၅ ကေခန့်ရှိသော မြေကို ၁၉၆၁ ခုနှစ်မှစ၍ဟဝိုင်း ယန်း အမျိုးသားဥယျာဉ် အဖြစ် ပြုစု ပျိုးထောင် ထား လေသည်။

ကျွန်း အ တော် များ များ၏ ကမ်း ရိုး တန်း များ တလျှောက်တွင် သန္တာကျောက်တန်းများ ဖြစ်ပေါ်နေ သဖြင့် ဟိုနိုလူလူနှင့် ပါးလဟာဗာ မြို့များမှတပါး အခြား သင်္ဘောဆိပ်မြို့ကောင်းကောင်း မရှိချေ။ ကမ်းရိုးတန်းနှင့် တောင်တန်းများ ကြားတွင် မြေဩဇာကောင်းသော ကမ်းမြောင် ဒေသများ ရှိသည်။ ယင်းဒေသများတွင် စိုက်ခင်းများ၊ မွေးမြူရေးခြံများ ပြုလုပ်ကြသည်။

ဟဝိုင်းယန်းကျွန်းမကြီးများသည် ဥတ္တရယာဉ်စွန်း တန်း၏ တောင်ဖက်တွင် တည်ရှိသော်လည်း အရှေ့မြောက် ရာသီလေတိုက်ခတ်သောကြောင့် တနှစ်ပတ်လုံး အပူချိန် သက်သာသည်။ ရာသီဥတုမျှတသည်။ တနှစ်ပတ်လုံးလည်း အသီးအနှံများကို စိုက်ပျိုးနိုင်သည်။ ဟဝိုင်းယန်းကျွန်း တွင် ကမ္ဘာပေါ်၌ မိုးအများဆုံးရွာသော ဒေသလည်းရှိ သည်။ ယင်းမှာ အာအူးအီးကျွန်းရှိ ဝါအီအာလီအာလီ တောင်ဖြစ်၍ ပျမ်းမျှခြင်းအားဖြင့် တနှစ်လျှင် မိုးရေချိန် လက်မ ၄၀၀ ကျော်ရွာသည်။ တခါတရံ လက်မ ၆၀၀ ကျော်ရွာသော နှစ်များပင် ရှိခဲ့သည်။ သို့ရာတွင် ထိုတောင်နှင့် ၁၅ မိုင်ခန့်သာ ဝေးသော ဒေသတွင်မူ တနှစ်လျှင် မိုးရေချိန်လက်မ ၂၀ ခန့်သာ ရွာသည်။ ဟဝိုင်းယန်းကျွန်းများသည် သမုဒ္ဒရာတွင်းမှ ကျွန်းများ ဖြစ်သော်လည်း အခြားကျွန်းများ၌ကဲ့သို့ ဟာရီကိန်းခေါ် ခေါင်လေကြမ်း၊ တောနာဒိုခေါ် လေဆင်နှာမောင်းတို့ မည်သည့်အခါမျှ ကျခြင်း မရှိချေ။ မြေလျှင်မူကား လူတို့သိသာလောက်အောင် ပြင်းထန်စွာ လှုပ်ခြင်းမျိုး အလွန်နည်းသော်သည်း မကြာခဏ လှုပ်တတ်သည်။

ဟဝိုင်းယန်းကျွန်းရှိ မြေအားလုံး၏ ၄၀ ရာခိုင်နှုန်းကို မွေးမြူရေးအတွက် အသုံးပြုထား၍ ၂၅ ရာခိုင်နှုန်းသည် သစ်တောကြိုးဝိုင်းများ ဖြစ်သည်။ ခုနစ်ရာခိုင်နှုန်းသည် စိုက်ခင်းများ ဖြစ်လေသည်။

မီးတောင်မှထွက်သော ချော်များကြောင့် မြေဩဇာ ကောင်းရကား ပန်းပင်များ၊ သီးပင်များ အလွန်ဖြစ်ထွန်း သည်။ တောင်စောင်းများ၌ အပူပိုင်းဒေသ သစ်တော များ ပေါက်ရောက်လျက်ရှိသည်။ စန္ဒကူး၊ ကရမက်စသော အမွှေးနံ့သာပင်တို့ အများအပြား ပေါက်သည်။ ၁၇၉၂ ခုနှစ်မှ ၁၈၃၀ ပြည့်နှစ်အထိ အမွှေးနံ့သာပင်များကို ခုတ်လှဲကာ တရုပ်နိုင်ငံသို့ တင်ပို့ရောင်းချခဲ့ရာ ထိုစဉ်က ဟဝိုင်းယန်းကျွန်း၏ ပဓာန လုပ်ငန်းတရပ်ပင် ဖြစ်ခဲ့၏။ ဟဝိုင်းယန်းကျွန်းများပေါ်သို့ မျက်နှာဖြူ လူမျိုးများ မရောက်မီကပင် ဟဝိုင်းယန်းကျွန်း၏ အဓိကစိုက်ပင်ဖြစ်



ဟဝိုင်းယန်းကျွန်းစုသူတဦး၏ ကဟန်

သော ကြံပင်ကို စိုက်ပျိုးခဲ့ကြသည်။ ကြံစိုက်ခင်းသည် လယ်ယာမြေ၏ ၁/၄ ခန့်ရှိသည်။ ဟဝိုင်းယန်းကျွန်းမှ တနှစ်လျှင် ကြံတန်ချိန် တသန်းကျော် ထွက်သည်။ နာနတ်ပင် စိုက်ပျိုးခြင်းသည် ဟဝိုင်းယန်းကျွန်း၏ ဒုတိယ အကြီးဆုံးလုပ်ငန်း ဖြစ်သည်။ မြေဧကပေါင်း ၇၀,၀၀၀ ကျော်ကို နာနတ်ပင် စိုက်ပျိုးရာ၌ စိုက်ခင်းအဖြစ် အသုံးပြု၍ တနှစ်လျှင် နာနတ်သီးပေါင်း ၂၅ သန်းကျော် ထွက်သည်။ တတိယ အကြီးအကျယ်ဆုံး ငွေအဝင်ဆုံး လုပ်ငန်းမှာ နိုင်ငံခြားခရီးသည်များအတွက် ဧည့်ကြိုလုပ်ငန်းဖြစ်သည်။ ဟဝိုင်းယန်းကျွန်းသည် ရှုခင်းသာရုံမက ရာသီဥတုကောင်းသဖြင့် တနှစ်လျှင် နိုင်ငံခြားဧည့် ခြောက်သောင်းထက်မနည်း လာရောက်လေသည်။ ဟဝိုင်းယန်းကျွန်းများပတ်လည်ရှိ ရေပြင်တွင် လင်းပိုင်စသော ရေနက်ပိုင်း၌နေသော ငါးများနှင့် အရောင်အသွေး အလွန်လှသော ငါးကလေးပေါင်း အမျိုး ၆၅၀ ခန့် တွေ့ရသည်။

ကျွန်းများပေါ်၌လည်း အမွေးအတောင် အရောင်အဆင်းလှပသော အပူပိုင်းဒေသ ငှက်မျိုးစုံ တွေ့နိုင်သည်။ ရှေးခေတ် ဟဝိုင်းယန်း တိုင်းရင်းသားများသည် ငှက်မွေးငှက်တောင်များကိုပင် အဆင်တန်ဆာအဖြစ် အသုံးပြုခဲ့ကြသည်။ ငှက်များကို အမွေးအတောင်အလို့ငှာ သတ်ဖြတ်ကြသဖြင့် ငှက်မျိုး တော်တော်များများ ပြုန်းခဲ့ရသည်။

၁၉၇၀ ပြည့်နှစ် သန်ကောင်စာရင်းအရ ဟဝိုင်းယန်းကျွန်းစု၏ လူဦးရေသည် ၇၆၉,၉၁၃ ယောက် ဖြစ်သည်။ အများစုမှာ ဂျပန်နှင့် ကော့ကေးရှပ်လူမျိုးများဖြစ်သည်။

အိုအားဟူးကျွန်း တောင်ဖက်ကမ်းခြေပေါ်၌ တည်ရှိသော ဟိုနိုလူလူမြို့သည် မြို့တော်ဖြစ်၍ ဟဝိုင်းအီးကျွန်းအနောက်ဖက်ကမ်းပေါ်ရှိ မီလိုမြို့သည် သင်္ဘောဆိပ်မြို့ကြီးဖြစ်သည်။ ဟိုနိုလူလူမြို့တွင် လူဦးရေ ၂၉၄,၁၉၄ ယောက်ရှိ၍ မီလိုမြို့တွင် ၂၅,၉၆၆ ယောက် ရှိသည်။

ဟဝိုင်းယန်းကျွန်းစုမှ တိုင်းရင်းသားများသည်အသားညို၍ မျက်လုံးနက်ပြီး ပူသည်။ မျက်နှာပေါက် ပါးပါးလျားလျားမရှိ။အရပ်အမောင်းမြင့်၍ အသားအရေ ဆူဖြိုးလေ့ ရှိကြသည်။ ခရစ်နှစ် ၁၇၀၀ ကျော်ခန့်က မျက်နှာဖြူလူမျိုးများ ဟဝိုင်းယန်းကျွန်းများပေါ်သို့ မရောက်မီ တိုင်းရင်းသားလူမျိုး ၃,၀၀၀,၀၀၀ ခန့် ရှိသည်။ ယခုမူ ဟဝိုင်းယန်း တိုင်းရင်းသား ၁၂,၀၀၀ နှင့် ဟဝိုင်းယန်း သွေးစပ်သူ ၈၀,၀၀၀ ခန့်သာ ရှိတော့သည်။ ဟဝိုင်းယန်းကျွန်းစု၌ ကြံခင်းများ အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်ရာ ယင်းလုပ်ငန်းကို လုပ်ကိုင်ရန် တရုပ်၊ ဂျပန်၊ ပေါ်တူဂီ၊ ဂျာမန်၊ ဠတာလျံ၊ ကိုးရီးယန်း၊ ဖိလစ်ပိုင်၊ ရုရှ စသော လူမျိုးပေါင်းစုံ ဝင်ရောက်လာခဲ့ရာ ယခုအခါ ဟဝိုင်းယန်းကျွန်းသည် ကမ္ဘာ့လူမျိုးပေါင်းစုံ စုဝေးရာဒေသ ဖြစ်နေလေသည်။ ဟဝိုင်းယန်း ကျွန်းများပေါ်ရှိ လူအားလုံးလိုလိုပင် အင်္ဂလိပ်ဘာသာစကားကို ပြောဆိုကြသည်။ သို့ရာတွင် ဟဝိုင်းယန်း ဘာသာစကားကိုပါ ညှပ်၍ ပြောဆိုလေ့ရှိကြသည်။ ဟဝိုင်းယန်း အက္ခရာစဉ်တွင် အေ၊ အီး၊ အိပ်ချ်၊ အိုင်၊ ကေ၊ အယ်၊ အမ်၊ အန်၊ အို၊ ပီ၊ ယူ၊ ဒဗလျူစသော အက္ခရာ ၁၂ လုံးသာပါသည်။ စကားလုံးတိုင်း သရသံဖြင့် ဆုံးသည်။

မျက်နှာဖြူလူမျိုးများ လာရောက် မနေထိုင်မီက တိုင်းရင်းသားလူမျိုးများသည် ယောကျ်ားများက မာလိုခေါ် နံ့ငယ်ကို ဝတ်၍ မိန်းမများက ပါအူးခေါ် သင်တိုင်းတိုကလေးများကို ဝတ်ဆင်ကြသည်။ ယခုမူ အမျိုးသမီးများက ညဥ့်ဝတ်ရုံကဲ့သို့သော ပွပွရှည်ရှည် ဂါဝန်များကို ဝတ်၍ အမျိုးသားများက ရောင်စုံရက်လုပ်ထားသော စပို့ရှပ်အင်္ကျီကို ဖောင်းဗီအပြင်ထုတ်၍ ဝတ်ကြသည်။ ယင်းသို့ ဖောင်းဗီအပြင်ထုတ်ဝတ်ရသော အင်္ကျီပုံစံကိုပင် ကျွန်ုပ်တို့ မြန်မာနိုင်ငံ၌ ဟဝိုင်းယန်းရှပ်ဟု ခေါ်တွင်လျက်ရှိလေသည်။

ဟဝိုင်းယန်းကျွန်းစု၏ ကူးသန်း သွားလာရေးတွင် လေကြောင်းခရီးကို အဓိကထား၍ အသုံးပြု ကြသည်။ ကျွန်းတကျွန်းမှ တကျွန်းသို့ ကူးသန်းသွားလာရာ၌ ကမ်းရိုးတလျှောက် သန္တာကျောက်တန်းများကြောင့် အသွားအလာ မလွယ်သဖြင့် အမြန်ဆုံး ခရီးအတွင်ဆုံး လေကြောင်းခရီးကိုပင် အသုံးပြုကြလေသည်။ ကျွန်းတွင်း သွားလာရာ၌ ကတ္တရာလမ်း မိုင် ၁,၃၀၀ ခန့် ဖောက်လုပ်ထား၍ မော်တော်ကား၊ ထရော်လီကားတို့ကို အသုံးပြုကြသည်။ မီးရထားလမ်းကိုမူ ၁၈၀၀ ပြည့်နှစ် ကျော်ကျော်က အိုအားဟူးကျွန်းတွင် စတင်ဖောက်လုပ်ခဲ့သော်လည်း ယခုအခါ လုံးဝ အသုံးမပြုတော့ချေ။

ဟဝိုင်းယန်းကျွန်းစုသည် ပတ်ဝန်းကျင်တွင် ရှုမျှော်ခင်း လှပသဖြင့် ထိုကျွန်းသူ ကျွန်းသားတို့၏ အနုပညာလက်ရာများသည်လည်း လှပသည်။ လက်ရာမြောက်ကျွမ်းကျင်သော အနုပညာသည် အများအပြားလည်း ထိုကျွန်းများမှ ထွက်သည်။ ဟဝိုင်းယန်း ကျွန်းသူကျွန်းသားများသည် သစ်ပန်းပုထုခြင်း၊ တောင်းရက်ခြင်း၊ ဖန်ထည်ပန်းဖော်ခြင်း၊ တိုင်းရင်းထွက်သစ်ဖြင့် ပရိဘောဂလုပ်ခြင်း၊ အထည်ပန်း ဆင်ပြင်ခြင်း စသော ပညာတို့၌ ကျွမ်းကျင်ကြသည်။ ဟဝိုင်းယန်းကျွန်းသူ ကျွန်းသားများ၏ ဟူလာအကသည် ကမ္ဘာကျော်သည်။

ဟဝိုင်းယန်းကျွန်းစုတွင် ကမ္ဘာပေါ်၌ ထင်ရှား၍ လူကြည်ညိုများသော အယူဝါဒတိုင်းလိုလို သက်ဝင်ယုံကြည်သူ အနည်းနှင့်အများ ဆိုသလို ရှိသည့်အနက် ရောမကက်သလစ်ဂိုဏ်းဝင်နှင့် ဗုဒ္ဓဝါဒီအများဆုံးဖြစ်သည်။

ဟဝိုင်းယန်းကျွန်းစု၌ ဦးစွာနေထိုင်ကြသူများသည် ခရစ်နှစ် ၅၀၀ ခန့်ကစ၍ ဆမိုးဝါးကျွန်းမှ ပြောင်းရွှေ့လာရောက်နေထိုင်ကြသူများ ဖြစ်သည်ဟု ဆိုသည်။ ပဌမဆုံးလာရောက်နေထိုင်သူမှာ ဟဝိုင်းအီးလိုအား ဆိုသူဖြစ်ကြောင်းဖြင့် ပြောကြသည်။ သူ၏အမည်ကို ယူ၍ ဟဝိုင်းယန်းကျွန်းများအနက် အကြီးဆုံးကျွန်းကို ဟဝိုင်းအီးကျွန်းဟု မှည့်ခေါ်သည်ဟုလည်း ဆိုကြလေသည်။

ဟဝိုင်းယန်းကျွန်းစုကိုစပိန်လူမျိုး ဟွန်ဂအေးတာနိုးက ခရစ် ၁၅၅၅ ခုနှစ်တွင် စတင်တွေ့ရှိသည်ဟု အချို့သမိုင်းဆရာတို့က ဆိုကြသည်။ သို့ရာတွင် သမိုင်းသုတေသီအတော်များများကမူ ၁၇၇၈ ခုနှစ် ဇန္နဝါရီလတွင်မှ ကက်ပတိန် ဂျိမ်း ကွတ်ဆိုသူ အင်္ဂလိပ်လူမျိုး စူးစမ်းရှာဖွေသူက တွေ့ရှိ၍ သူ၏ကျေးဇူးရှင် ဆင်းဒဝစ်ကို ဂုဏ်ပြုသောအားဖြင့် ထိုကျွန်းများကို ဆင်းဒဝစ်ကျွန်း ဟူ၍ မှည့်ခေါ်ခဲ့သည်ဟု ယူဆကြသည်။ ၁၇၉၂ ခုနှစ်တွင် ကက်ပတိန်ကွတ်၏ အဖွဲ့ဝင်တဦးဖြစ်သူ ဂျော့ ဗန်ကူးဗားသည် ဟဝိုင်းအီးကျွန်းသို့ ရောက်လာသောအခါ ထိုကျွန်း၌ ပဌမ ကာမီဟာမီဟာဘုရင် ကြီးမှူးအုပ်ချုပ် နေသည်။ ၁၇၉၅ ခုနှစ်တွင် ကျွန်းနှစ်ကျွန်းမှအပ ဟဝိုင်းယန်းကျွန်းအားလုံးကို စုစည်းအုပ်ချုပ်နိုင်ခဲ့ရာ အစိုးရ တခုတည်းအောက်သို့ စည်းလုံးရောက်ရှိလာခဲ့သည်။ ၁၈၁၀ ပြည့်နှစ်တွင် ကျွန်းနှစ်ကျွန်းပါ စုစည်းနိုင်သည်။ ၁၈၂၀ ပြည့်နှစ်တွင် ဒုတိယ ဟာမီဟာမီဟာဘုရင်လက်ထက်၌ ဥရောပနှင့်အမေရိကတိုက်များမှ သာသနာပြုများ ရောက်ရှိ၍ ခရစ်ယန်အယူဝါဒ ပြန့်ပွားလာသည်။ ၁၈၃၅ ခုနှစ် လောက်မှစ၍ တိုင်းရင်းသားများသည် သာသနာပြုများ၏ ဆောင်ရွက်မှုဖြင့် စာရေးစာဖတ် အတော်အတန် တတ်မြောက်လာကြ၏။ ဒုတိယ ကာမီဟာမီဟာသည် ပဌမ ကာမီဟာမီလောက် တိုင်းပြည်အုပ်ချုပ်ရာ၌ မလိမ်မာသော်လည်း ပဌမ ကာမီဟာမီဟာ၏ မိဖုရားတဦးက ရှေ့ဆောင်ရွှေ့ရွက်အကြံဉာဏ်ကောင်းများ ပေးသဖြင့် တိုင်းပြည်မှာ လှုးလှုးလဲလဲမဖြစ်လှချေ။ သို့ရာတွင် ဟဝိုင်းယန်းကျွန်းသို့ နိုင်ငံခြားသားများ အဝင်အထွက် များလာလေလေ နိုင်ငံရေး ရှုတ်ထွေးလာလေလေဖြစ်လာခဲ့သည်။ အမေရိကန်တို့က ဟဝိုင်းယန်းကျွန်း၌ အမေရိကန် ကိုယ်စားလှယ်တဦး ခန့်ထားလာ၍ ရုရှတို့ကလည်း ရုရှပိုင်ကျွန်းအဖြစ် တောင်းဆိုလာကြသည်။ နောက်ဆုံး၌ ဒုတိယ ကာမီဟာမီဟာနှင့် မိဖုရားတို့သည် ၁၈၂၃ ခုနှစ်တွင် ဟဝိုင်းအီးကျွန်းအတွက် အကာအကွယ်တောင်းဆိုရန် အင်္ဂလန်နိုင်ငံသို့သွားရောက်လည်ပတ်ကြသည်။ အင်္ဂလန်နိုင်ငံ၌ပင် နှစ်ဦးစလုံးကွယ်လွန်သွားလေသည်။

ဒုတိယ ကာမီဟာမီဟာ လွန်ပြီးနောက် ညီတော် တတိယ ကာမီဟာမီဟာ(၁၈၂၄–၅၃)က ဆက်ခံအုပ်ချုပ်သည်။ သူ့လက်ထက်တွင် ဟဝိုင်းယန်းကျွန်းသည် ပြင်သစ်တို့လက်တွင်းသို့ ကျရောက်မည်ကဲ့သို့ ဖြစ်လာသဖြင့် ပြင်သစ်၊ အင်္ဂလန်နှင့် အမေရိကန်ပြည်ထောင်စု နိုင်ငံများသို့ သံတမန်များ စေလွှတ်စေ့စပ်ရာ အခက်အခဲကို အောင်မြင်ခဲ့သည်။ စတုတ္ထ ကာမီဟာမီဟာ(၁၈၅၄–၆၃) ဘုရင်လက်ထက်တွင် ဟဝိုင်းယန်းကျွန်း၌ ဆန်စပါးစိုက်ပျိုးရေး စတင်၍လုပ်ကိုင်သည်။ နိုင်ငံရပ်ခြားမှဆန်စပါးစိုက်ပျိုးရေးအတွက် အလုပ်သမားများ ခေါ်ယူလိုသဖြင့် နိုင်ငံခြားသားများ ဝင်ရောက်နေထိုင်ရေးကို အားပေးသည်။ များသောအားဖြင့် ဂျပန်၊ အင်ဒိုနီးရှား၊ တရုပ်စသော လူမျိုးများ လာရောက်နေထိုင်ကြသည်။ စတုတ္ထ ကာမီဟာမီဟာ လွန်သော် သူ၏နောင်တော်သည် ပဉ္စမ ကာမီဟာမီဟာဟူသော ဘွဲ့ဖြင့် နန်းတက်သည်။ ထိုမင်းသည် အာဏာကို များများသုံး၍ ပြည်သူတို့အား တင်းတင်းကြပ်ကြပ် အုပ်ချုပ်သည်။ ၁၈၇၃ ခုနှစ်တွင် ပဉ္စမ ကာမီဟာမီဟာ လွန်သော် အထွေထွေ ရွေးကောက်ပွဲဖြင့် ဟဝိုင်းယန်းကျွန်းသမိုင်း၌ ပဌမဆုံး ရွေးကောက်တင်မြှောက်ခြင်း ခံရသော လူနာလီလို နန်းတက်သည်။ နောက်တနှစ်အကြာတွင် လူနာလီလိုလွန်လျှင် ကာလာကာအူးအားကို ရွေးချယ်တင်မြှောက်ကြရာ ကာလာကာအူးအားသည် ၁၈၉၁ ခုနှစ် အထိ နန်းစံသည်။ သူ့လက်ထက်တွင် ဟဝိုင်းယန်းကျွန်းထွက် သကြားများကို အမေရိကန် နိုင်ငံသို့ အကောက်ခွန်လွတ်တင်သွင်းခွင့်ပြုရန် စာချုပ်ပြုလုပ်သည်။ ယင်းအခွင့်အရေးအတွက် အပြန်အလှန်အားဖြင့် ဟဝိုင်းယန်းအစိုးရက အမေရိကန်အစိုးရအား ပါးလဟာဗာကို ရေတပ်စခန်းအဖြစ် ဖွင့်လှစ်ခွင့်ပေးရလေသည်။

ကာလာကာအူးအားမင်းလွန်သော် နှမတော်လီလီအူးကာလာနီ နန်းတက်သည်။ လီလီအူးကာလာနီသည် အာဏာကို တဦးတည်းလက်ဝယ် သိမ်းပိုက်အုပ်ချုပ်ရန် ကြိုးစားသည်။ ထိုအခါလူထုက မခံမရပ်နိုင်ဖြစ်ကာ ၁၈၉၃ ခုနှစ်တွင် လီလီအူးကာလာနီကို နန်းချ၍ ၁၈၉၄ ခုနှစ်တွင် ဟဝိုင်းယန်းသမတနိုင်ငံ ထူထောင်လေသည်။ ၁၈၉၈ ခုနှစ်တွင် ဟဝိုင်းယန်းကျွန်းများကို အမေရိကန်ပြည်ထောင်စုအတွင်းသို့ နယ်တနယ်အဖြစ် သွတ်သွင်းသိမ်းယူလိုက်သည်။ သို့ရာတွင် ပြည်နယ်အဖြစ်သို့ကား မရောက်ရှိသေးချေ။ ထိုအချိန်မှစ၍ ဟဝိုင်းယန်းကျွန်း၏ ဘုရင်ခံ၊ တရားဝန်ကြီး စသည်တို့ကို အမေရိကန်သမတက ရွေးချယ်ခန့်ထားလေသည်။

၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့တွင် ဂျပန်တို့သည် မည်သို့မျှ စစ်မကြေညာပဲ ဟဝိုင်းယန်းကျွန်းရှိ အမေရိကန် ရေတပ်စခန်း ဖြစ်သော ပါးလဟာဗာမြို့ကို

ရတ်တရက်ဗုန်းကြဲတိုက်ခိုက်သဖြင့် အကြီးအကျယ် ပျက်စီးခဲ့ရသည်။ (ပါးလဟာဗာ — လည်းရှု။)

၁၉၅၉ ခုနှစ် မတ်လ ၁၂ ရက်နေ့တွင် ဟဝိုင်းယန်းကျွန်းစုကို အမေရိကန်ပြည်ထောင်စု၏ ၅၀ မြောက် ပြည်နယ်အဖြစ် အသိအမှတ်ပြုသည့် ဥပဒေကြမ်းကို အမေရိကန်လွှတ်တော်က အတည်ပြု ပြဋ္ဌာန်းလိုက်လေသည်။ ထိုနှစ် မတ်လ ၁၈ ရက်နေ့တွင် အမေရိကန်သမတ ဒွိုက် ဒီ အိုက်ဆင်ဟောင်ဝါက ထိုဥပဒေကြမ်းကို လက်မှတ်ရေးထိုး၍ ဩဂုတ်လ ၂၁ ရက်နေ့တွင် တရားဝင် ကြေညာခဲ့လေသည်။

**ဟာဒီ, တောမတ်** (ခရစ် ၁၈၄၀–၁၉၂၈)။ ။မြန်မာနိုင်ငံတွင် ပန်းသာမစာဥဝတ္ထုကိုသော်လည်း ဖတ်ဘူးကြသူရှိမည်။ ပန်းသာမစာဥ ရုပ်ရှင်ကိုသော်လည်း ကြည့်ဘူးသူရှိကြမည်။ ထိုဝတ္ထုမှာ နာမည်ကျော် အင်္ဂလိပ်စာဆို တောမတ် ဟာဒီ၏ "တက်စ-အော့–သ–ဒျူဗာဗီး" ဟူသော ဝတ္ထုကို စာရေးဆရာကြီး သခင်ဘသောင်းက ဆီလျော်အောင် ဘာသာပြန်ဆိုထားသည့် ဝတ္ထုဖြစ်သည်။

တောမတ် ဟာဒီသည် ၁၈၄၀ ပြည့်နှစ် ဇွန်လ ၂ ရက်နေ့တွင် အင်္ဂလန်နိုင်ငံတောင်ပိုင်း ဒေါ်ဆက်ရှိုင်ယာခရိုင် ဒေါ်ချက်စတားမြို့အနီး၌ ဖွားမြင်သည်။ မိမိနေရပ်ရှိ စာသင်ကျောင်းတွင် အခြေခံပညာကို သင်ကြားပြီးနောက် လန်ဒန်မြို့ ဘုရင့်ကောလိပ်ကျောင်း၌ ပညာဆက်သင်ခဲ့သည်။ အသက် ၁၆ အရွယ်တွင် ဗိသုကာအတတ်ကို သင်ကြားသည်။ ဟာဒီသည် ဗိသုကာအလုပ်ကို လုပ်ကိုင်နေစဉ် မိမိ၏ ပင်ကိုယ်ဝါသနာအလျောက် စာပေများကိုလည်း ရေးသားခဲ့သည်။ ၁၈၇၄ ခုနှစ်တွင် "ဖား–ဖရွန်–သ–မက်ဒင်းကရောက်" အမည်ရှိ ဝတ္ထုကို ရေးသားထုတ်ဝေပြီးနောက် ဟာဒီသည် စာပေလောကထဲသို့ ဝင်ရောက်ခဲ့လေသည်။

တောမတ် ဟာဒီသည် မိမိ၏ ချက်မြှုပ်ရာအရပ်ကို စွဲလန်း ခင်မင်သူ ဖြစ်သည့်အလျောက် သူရေးသော ဝတ္ထုအများတွင် ထိုဒေသရှိ သဘာဝ ရှုခင်းကို နောက်ခံထား၍ ရေးသားလေ့ရှိသည်။ ဒေါ်ချက်စတား မြို့နယ်ဒေသကိုလည်း ဝက်ဆက်ဟူသော ရှေးဟောင်း အမည်ဖြင့် မှည့်ခေါ်လေ့ရှိသည်။ ဟာဒီသည် တောကျေးလက်တွင် နေထိုင်သူတို့၏ သဘာဝဓလေ့ကိုရင်း၊ အရိုးခံစိတ်နေသဘောထားကိုရင်း သဘောကျ နှစ်သက်သူဖြစ်သည့်အပြင်၊ သဘာဝက လူတို့၏ ကောင်းကျိုး၊ မကောင်းကျိုးကို ပြုပြင်လျက်ရှိသည်ဟု ယုံကြည်သူလည်း ဖြစ်သည်။

တောမတ် ဟာဒီသည် ၁၈၇၁ ခုနှစ်မှ ၁၈၉၆ ခုနှစ်အထိ ဝတ္ထုပေါင်း ၁၄ ပုဒ်ကို ရေးပြီးနောက် ၁၈၉၈ ခုနှစ်



နာမည်ကျော် အင်္ဂလိပ်စာဆို တောမတ် ဟာဒီ

မှစ၍ ကဗျာများကို စပ်ဆိုခဲ့လေသည်။ အထက်တွင် ဖော်ပြခဲ့သော ဝတ္ထုနှစ်ပုဒ်အပြင် ထင်ရှားသော အခြားဝတ္ထုအချို့မှာ "မျက်လုံးပြာတစုံ"၊ "တိုင်းရင်းသား အိမ်ပြန်ခန်း"၊ "ကက်စတာဗရစ်မြို့တော်ဝန်" နှင့် "စိမ်းရောင်စိုသစ်ပင်အောက်" တို့ ဖြစ်သည်။ ဟာဒီ၏ ကဗျာများတွင် "ဝက်ဆက်ကဗျာများ" နှင့် "သီ–ဒိုင်နပ်စ" တို့ ပါဝင်သည်။ ၁၉၁၀ ပြည့်နှစ်တွင် "အော်ဒါ–အော့–မဲရစ်" ဘွဲ့ ချီးမြှင့်ခြင်း ခံရသည်။

တောမတ် ဟာဒီသည် ၁၉၂၈ ခုနှစ် ဇန္နဝါရီလ ၁၁ ရက်နေ့တွင် ဒေါ်ချက်စတာမြို့အနီးရှိ နေအိမ်၌ ကွယ်လွန်သည်။ သူ၏ အရိုးပြာကို လန်ဒန်မြို့ ဝက်စမင်စတာ အက်ဗေးရှိစာဆိုထောင့်တွင် မြှုပ်နှံသင်္ဂြိုဟ်ခဲ့ကြလေသည်။

**ဟာဗားနားမြို့**။ ။ဟာဗားနားမြို့သည် အနောက်အိန္ဒိယကျွန်းစုရှိ ကျူးဗားသမတနိုင်ငံ၏ မြို့တော်ဖြစ်သည်။ ထိုကျွန်းစုတွင် အကြီးဆုံး မြို့လည်း ဖြစ်သည်။ ကျူးဗားကျွန်း၏ အနောက် မြောက်ဖက် ကမ်းခြေတွင် တည်ရှိ၍ အခြား မြို့ကြီးများနှင့် မီးရထားလမ်း၊ မော်တော်ကားလမ်းတို့ဖြင့် ဆက်သွယ်လျက်ရှိသည်။ လေကြောင်းခရီးနှင့် ပင်လယ်ကြောင်းခရီးတို့အတွက် စခန်းမြို့လည်း ဖြစ်သည်။ အမေရိကန်ပြည်ထောင်စု ဖလော်ရီဒါပြည်နယ် ကီးဝက်မှ မိုင် ၁၀၀ ခန့်အကွာတွင် တည်ရှိသည်။ **ဟာ**

ဗားနစ်း သဘော်ဆိပ်သည် ဟာဗားနား ပင်လယ်အော် အတွင်း၌ တည်ရှိခြင်းကြောင့် ပင်လယ်ကူး သဘော်ကြီး များ ဆိုက်ကပ်ရန်အတွက် လုံခြုံသော ဆိပ်ကမ်းကောင်း ဖြစ်သည်။ (ကျူးဗားကျွန်း — လည်းရှု။)

ဟာဗားနားမြို့ကို မြို့သစ်နှင့် မြို့ဟောင်းဟူ၍ ပိုင်းခြား နိုင်သည်။ ဟာဗားနား မြို့ဟောင်းသည် သဘော်ဆိပ် အနောက်ဖက်တွင် တည်ရှိ၍ ထိုရပ်ကွက်၌ ရှေးကျသော အဆောက်အအုံများကိုင်း၊ မြို့ရိုးဟောင်းနှင့် ရဲတိုက်တို့ ကိုင်း တွေ့မြင်နိုင်သည်။ လမ်းများ ကျဉ်းမြောင်း၍ လူ နေအိမ်ခြေ ကျပ်တည်းသည်။ ဟာဗားနားမြို့သစ်မှာမူကား မြို့ဟောင်း အနောက်ဖက်တွင် တည်ရှိ၍ ခေတ်မှီ တိုက် တာ အဆောက်အအုံများ၊ လမ်းမကျယ်ကြီးများ၊ ဥယျာဉ် ပန်းခြံတို့ဖြင့် သပ်ယပ်ခမ်းနားသော မြို့ကွက်ကို တွေ့မြင် နိုင်သည်။ အရောင်းအဝယ် စည်ကားသော ရပ်ကွက် လည်း ဖြစ်သည်။ မြို့သစ်တွင် ကျူးဗား လွှတ်တော်နှင့် အစိုးရ အဆောက်အအုံများ တည်ရှိသည်။

ဟာဗားနားမြို့သည် ကျူးဗားကျွန်းမှ အဓိက ထွက် ကုန်များဖြစ်သော ဆေးလိပ်၊ ဆေးရွက်နှင့် သကြားတို့ကို တင်ပို့ရောင်းချရာ မြို့ဖြစ်သည်။ သကြားလုပ်ငန်း၊ ဆေး လိပ်နှင့် စီးကရက် လုပ်ငန်းတို့မှာ ကြီးကျယ်သော စက်မှု လုပ်ငန်းများဖြစ်၍ ဟာဗားနား ဆေးပြင်းလိပ်သည် ထင် ရှား၏။ အထူးသဖြင့် သကြားအများဆုံး တင်ပို့သော ဆိပ်ကမ်းမြို့ဖြစ်သည်။

ဟာဗားနားမြို့သည် ကျူးဗားကျွန်း ယဉ်ကျေးမှုနှင့် ပညာရေးအတွက် ဗဟိုအချက်အခြာမြို့ဖြစ်၍ ဟာဗားနား တက္ကသိုလ်နှင့် စိန်တောမတ် ကက်သလစ်တက္ကသိုလ်တို့ တည်ရာ ဌာနဖြစ်သည်။ စာကြည့်တိုက်နှင့် ပြတိုက်များ လည်း ရှိသည်။

ရှေးအခါက ကျူးဗားကျွန်းကို စပိန်တို့က ပိုင်၍ ၁၅၁၅ ခုနှစ်တွင် ကျွန်း၏ တောင်ဖက်ကမ်းခြေ၌ ဟာဗား နားမြို့ကို စတင် တည်ထောင်ခဲ့ကြသည်။ သို့ရာတွင် ပင်လယ်ဓားပြတို့က မြို့ကို မကြာခဏ တိုက်ခိုက်ကြသော



ကျူးဗားနိုင်ငံ ဟာဗားနားမြို့ရှိ အစိုးရအိမ်တော်

ကြောင့် မြောက်ဖက် ကမ်းခြေ လက်ရှိ နေရာသို့ ၁၅၁၉ ခုနှစ်တွင် ပြောင်းရွှေ့ခဲ့ရလေသည်။ ၁၇၆၂ ခုနှစ်တွင် အင်္ဂလိပ်တို့က ဟာဗားနားမြို့ကို တနှစ်ခန့်မျှကြာအောင် သိမ်းပိုက်ခဲ့ဘူးသည်။ ထိုနောက် ၁၈၉၈ ခုနှစ် ဖေဖွာရီလ ၁၅ ရက်နေ့တွင် ဟာဗားနား ဆိပ်ကမ်း၌ မိန်းအမည်ရှိ အမေရိကန် စစ်သင်္ဘောတစင်းသည် ထူးဆန်းစွာ ပေါက်ကွဲ ပျက်စီးခဲ့သောကြောင့် အမေရိကန်နှင့် စပိန်တို့ စစ်ဖြစ်ကြလေသည်။ စစ်ပွဲအပြီးတွင် စပိန်သည် ကျူးဗားကျွန်းကို လက်လွှတ်လိုက်ရသည်။ ၁၉၀၂ ခုနှစ်တွင် ကျူးဗား သမတနိုင်ငံကို တည်ထောင်ကြသောအခါ ဟာဗားနားမြို့သည် မြို့တော်ဖြစ်လာ၏။

ဟာဗားနားမြို့တွင် စပိန်တို့ ကြီးစိုးစဉ်က ပင်လယ်ဓားပြတို့၏ ရန်မှ ကာကွယ်ရန် ဆောက်လုပ်ခဲ့သော ရဲတိုက်ကြီးများ၊ ကသီဒရယ် ဘုရားရှိခိုးကျောင်း၊ ဘုရင်ခံ၏ စံအိမ် စသော ရှေးခေတ် အဆောက်အအုံများနှင့် လုပတင့်တယ်သော ခေတ်မီ မြို့ကွက် ရှုခင်းများကို ကြည့်ရှုရန် နိုင်ငံခြား ဧည့်သည်ပေါင်း မြောက်မြားစွာတို့သည် လာရောက် လည်ပတ်လေ့ရှိသည်။

ကျူးဗားကျွန်းကို ပဌမဦးဆုံး တွေ့ခဲ့ရသူ ခရစ္စတိုဖာကိုလံဗပ်၏ ရုပ်အလောင်းကို ဟာဗားနားမြို့ရှိ ကသီဒရယ် ဘုရားရှိခိုးကျောင်း၌ နှစ်တရာခန့်မျှ မြှုပ်နှံထားပြီးနောက် ၁၈၉၈ ခုနှစ်တွင်မှ စပိန်နိုင်ငံသို့ သယ်ယူပြောင်းရွှေ့ခဲ့ကြသည်။

ဟာဗားနားမြို့တွင် လူဦးရေ ၁,၃၅၅,၃၆၀ (၁၉၇၀) ယောက်ခန့် နေထိုင်သည်။

**ဟား, ဖရန့်ဇ (ခရစ် ၁၅၈၀ – ၁၆၆၆)။** ။ကမ္ဘာကျော် နယ်သာလန် ပုံတူရေး ပန်းချီကျော်များအနက် ဖရန့်ဇ ဟားလည်း အပါအဝင် ဖြစ်သည်။ စင်စစ်သော်ကား ဖရန့်ဇ ဟားသည် နယ်သာလန် နိုင်ငံတွင် ပန်းချီကျော် ရမ်းဗရန့် နောက် အထင်အရှားဆုံးသော ပန်းချီကျော်တဦး ဖြစ်သည်။ (ရမ်းဗရန့် — လည်းရှု။) သူ့ကို နယ်သာလန် နိုင်ငံ အန့်တဝပ်မြို့တွင် ၁၅၈၀ ပြည့်၊ သို့မဟုတ် ၁၅၈၁ ခုနှစ်တွင် မွေးဖွားခဲ့သော်လည်း ဟာလင်မြို့၌သာ အနေများလေသည်။ ၁၆၁၆ ခုနှစ်မှစ၍ ပန်းချီကားများ ဆွဲခဲ့သည်။ သူ့ခေတ်က အတော်ပင် ကျော်ကြားခဲ့သော်လည်း အစဉ်သဖြင့် ငွေကြေးပြဿနာနှင့် ရင်ဆိုင်ခဲ့ရလေသည်။ ထိုသို့ဖြစ်ရသည်မှာ သူ့တွင် သားသမီးများပြားခြင်းကြောင့် ဖြစ်သည်။ သို့သော် နောက်တွင် သူ့ကို ဟာလင်မြို့သူမြို့သားများက ငွေကြေးကူညီပေးကမ်းသဖြင့် ချောင်လည်ခဲ့ရသည်။ ဖရန့်ဇ ဟားသည် ၁၆၆၆ ခုနှစ်တွင် ကွယ်လွန်သည်။

ဟားသည် အဆင့်အတန်း အမျိုးမျိုးမှ လူများ၏ ပုံတူရုပ်များကို ရေးဆွဲခဲ့သော်လည်း လူစုလူဝေးနှင့် နေထိုင်ပုံများကို ရေးဆွဲရာတွင် အထူးသဖြင့် လူကြိုက်များလေသည်။ ဟားသည် ပုံတူရေး ပန်းချီဆရာအဖြစ် အထူးထင်ရှား ကျော်ကြားသည်ဖြစ်ရာ၊ များသောအားဖြင့် လုပ်သားပြည်သူလူထုထဲမှ လူများ၏ ပုံတူများကို ရေးဆွဲခဲ့သည်။ ခပ်ရွှင်ရွှင် ရုပ်ပုံတို့သာ များသည်။ သဘာဝ အလှအပဟူသည် နန်းတွင်းတွင်သာ တွေ့ရသည်မဟုတ်၊ တော တောင် ရေမြေနှင့် လူထုထဲတွင်လည်း တွေ့ရှိနိုင်ကြောင်း ဖော်ပြခဲ့လေသည်။

ဟား၏ လက်ရာ ပန်းချီကား ပုံပေါင်း ၂၀၀ ခန့် ကျန်ရှိခဲ့သည့်အနက် အထင်ရှားဆုံးမှာ "ရယ်နေသော မြင်းသည်တော်" ပန်းချီကားဖြစ်သည်။ အခြား ထင်ရှားသော ပန်းချီကားများမှာ "လာ ဗိုဟီမီယန်"၊ "ဟာလင်က စုံမ ဟီလီဗော့ဗီ" နှင့် "စိန်အင်ဒရူး၏ အရာရှိများ" စသည်တို့ ဖြစ်လေသည်။

**ဟားကျူးလီး။** ။ဟားကျူးလီးသည် ဂရိထုံးဟောင်း ပုံပြင်တွင် ခွန်အား အကြီးမားဆုံး သူရဲကောင်းအဖြစ် ထင်ရှားသူ ဖြစ်သည်။ ဇုနတ်မင်းကြီးနှင့် လူသားမိခင် အက်တမီးနီတို့မှ ဖွားမြင်သော သားဖြစ်သောကြောင့် မွေးစကတည်းက နတ်မင်း၏မိဖုရား ဟီးရ၏ ငြိုငြင်ခြင်းကို ခံခဲ့ရသည်။ ဟီးရသည် ပုခက်တွင်း၌ရှိသော ဟားကျူးလီးကို သုတ်သင်ပစ်ရန် မြွေနဂါးကြီး နှစ်ကောင်ကိုလွှတ်၍ တိုက်သည်။ သို့ရာတွင် ကလေးက ထိုမြွေနဂါး နှစ်ကောင်ကို မိမိလက်ဖြင့် ညှစ်၍ သတ်ခဲ့သည်။

ဟားကျူးလီးသည် အရွယ် ရောက်လာသောအခါ လက်နက်ကိုင်စွဲသည့် အတတ်၊ ကစားခုန်စား အတတ်တို့ကို စင်းတောကိုင်ရွန်ထံမှ သင်ကြားခဲ့ရသည်။ စစ်ရထားမောင်း အတတ်၊ နပန်းအတတ် အစရှိသော အတတ်အမျိုးမျိုးတို့ကိုလည်း အခြား သူရဲကောင်းကြီးများထံမှ လေ့လာ ဆည်းပူးခဲ့ရသည်။ ထိုနောက် ဟားကျူးလီးသည် သီးဗီးပြည်သားတို့၏ ရန်သူ အော်ခိုမိနပ် ဘုရင်အာဂျီနပ်ကို လုပ်ကြံသတ်ဖြတ်ပေးသဖြင့် သီးဗီးဘုရင်က သမီးတော် မီဂါရာနှင့် ထိမ်းမြားလက်ထပ်ပေး၍ ကျေးဇူးဆပ်သည်။ ဟားကျူးလီးနှင့် ထိုမင်းသမီးတို့တွင် သားသမီးများစွာ ထွန်းကားခဲ့သည်။ သို့ရာတွင် ဟီးရ၏လက်ချက်ကြောင့် စိတ်ဖောက်ပြန် ရူးသွပ်ပြီးလျှင် ဇနီးနှင့် သားသမီး အားလုံးကို အဆုံးစီရင် ပစ်လေသည်။ ဟားကျူးလီးသည် စိတ်ဖောက်ပြန်ခြင်းမှ ကင်းလွတ်သောအခါ မိမိပြုမိသော အပြစ်ကြောင့် စိတ်မကောင်းဖြစ်သဖြင့် ဒဲလဖိုင် နတ်ကွန်းသို့ သွားရောက်၍ နတ်မေးလေသည်။ နတ်

က ထိုပြစ်မှုကြောင့် တိရင်းဘုရင် ယူရစ်သုထံ၌ ၁၂ နှစ်မျှ အစေခံရမည်ဟု ဆိုလေသည်။ ယူရစ်သု ဘုရင် စေခိုင်းချက်အရ ဟားကျူးလီးသည် အလွန် ခဲယဉ်းသော အလုပ်တာဝန် ၁၂ ခုကို ဆောင်ရွက်ရသည်။ ထိုကြောင့် အင်္ဂလိပ်စာပေတွင် အလွန် ခက်ခဲသော အလုပ်မျိုးကို "ဟားကျူးလီး၏အလုပ်"ဟု တင်စား၍ ဆိုရိုးရှိသည်။

ဟားကျူးလီး ပဌမဦးဆုံး ဆောင်ရွက်ရသော အလုပ်မှာ နီမီယားတိုင်းပြည်တွင် ဆိုးသွမ်းလျက်ရှိသော ခြင်္သေ့ကြီးကို သုတ်သင်ရခြင်း ဖြစ်သည်။ ဟားကျူးလီးသည် မိမိ၏လက်ဖြင့် ခြင်္သေ့ကြီး၏ လည်မျိုကို ညှစ်သတ်ခဲ့လေသည်။ ဒုတိယဆောင်ရွက်ရသောအလုပ်မှာ ခေါင်းကိုးလုံးရှိသော ဟိုင်ဒြာခေါ် မြွေနဂါးကြီးကို သတ်ဖြတ်ရခြင်း ဖြစ်သည်။ ထိုမြွေနဂါးကြီး၏ ခေါင်းတလုံးကို ဖြတ်လျှင် ယင်းနေရာ၌ ခေါင်းနှစ်လုံးထွက်ပေါ်လာသည်။ နောက်ဆုံး၌ ဟားကျူးလီးသည် ခေါင်းတလုံးစီ၏ လည်ပင်းကို မီးရှို့ခြင်းဖြင့် မြွေနဂါးရန်ကို နှိမ်နင်းနိုင်ခဲ့သည်။ ထိုနောက် မိမိ၏မြားများကို မြွေဆိပ်ဖြင့် လူးလေသည်။

တတိယ ဆောင်ရွက်ရသော အလုပ်မှာ အာကေးဒီးယားပြည်ရှိ ရွှေသမင်ကို အရှင်ဖမ်း၍ ဘုရင့်ထံ ဆက်သရခြင်း ဖြစ်သည်။ ထိုသမင်၏ ဦးချိုများသည် ရွှေဦးချိုများဖြစ်၍ ခွာများသည် ကြေးခွာဖြစ်သည်။ အပြေးအလွန် သန်သည်။ ဟားကျူးလီးသည် ထိုသမင်ကို မိအောင် ပင်ပန်းစွာ လိုက်လံဖမ်းဆီးခဲ့ရသည်။

စတုတ္ထ ဆောင်ရွက်ရသော အလုပ်မှာ အာကေးဒီးယားပြည် အိရီမန်သုမှ တောဝက်ရိုင်းကို ဖမ်းဆီးပေးရခြင်း ဖြစ်သည်။

ပဥ္စမ ဆောင်ရွက်ချက်မှာ အီးလစ်ပြည့်ရှင် ဩဂျီယပ်၏ နွားတင်းကုပ် များကို ဆေးကြော သုတ်သင် ပေးရခြင်း ဖြစ်သည်။ ထိုဘုရင်တွင် နွားအကောင်ပေါင်း ၃,၀၀၀ ရှိ၍ နွားတင်းကုပ် များကို နှစ်ပေါင်း ၃၀ မျှ မဆေးမကြောပဲ ထားသည်ဟု ဆိုသည်။ ဟားကျူးလီးသည် အဲလမိယပ်မြစ်နှင့် ပီနီယပ်မြစ် တို့ကို တင်းကုပ်များဖက်သို့လှည့်၍ ဖြတ်သန်းစီးဆင်းစေခြင်းအားဖြင့် တနေ့ချင်းအတွင်း ဆေးကြောပြီးလေသည်။

ဆဋ္ဌမ ဆောင်ရွက်ချက်မှာ စတင်ဖာလပ် ရေအိုင်တွင် ကျက်စားသော လူသားစား ငှက်ဘီလူးကြီးများကို ဆိပ်လူးမြားဖြင့် ပစ်ခတ်သုတ်သင်ခြင်း ဖြစ်သည်။

သတ္တမအလုပ်မှာ ကရိကျွန်းရှိ နွားရူးကြီးကို ဖမ်းဆီးရခြင်း ဖြစ်သည်။ ပိုဆိုင်ဒွန်နတ်မင်းက ကရိဘုရင် မိနိုထံသို့ နွားလားတကောင်ကို ယဇ်ပူဇော်ရန် ပေးပို့ခဲ့သည်။ မိနိုဘုရင်သည်လည်း နွားလား၏ ကြန်အင်လက္ခဏာကို သဘောကျ နှစ်သက်သဖြင့် ယဇ်ပူဇော်ခြင်း မပြုပဲ မိမိအတွက် မွေးမြူထားလေသည်။ ထိုအခါ ပိုဆိုင်ဒွန်နတ်မင်းသည် အမျက်ထွက်ကာ နွားလားကြီးကို ရူးသွပ်စေသည်။ သို့ဖြစ်၍ ဟားကျူးလီးအား နွားရူးကြီး၏ရန်ကို နှိမ်နင်းစေသည်။

အဋ္ဌမ ဆောင်ရွက်ချက်မှာ ဒိုင်အိုမီးဒီး ဘုရင်၏ မြင်းမများကို ဖမ်းဆီးပေးရခြင်း ဖြစ်သည်။ ထိုမြင်းမများသည် လူသားစား မြင်းများဖြစ်၍ ဟားကျူးလီးသည် ဒိုင်အိုမီးဒီးကို သတ်ပြီးလျှင် အသားကို မြင်းတို့အား ကျွေးခဲ့သည်။

နဝမ ဆောင်ရွက်ချက်မှာ အမ္မဇုန်တို့၏ဘုရင်မ ဟစ်ပိုလိုင်တီထံမှ လှပသော ခါးစည်းကို ယူဆောင်ပေးရခြင်း ဖြစ်သည်။ အမ္မဇုန်တို့သည်ကား စစ်တိုက် ဝါသနာပါသော မိန်းမများ ဖြစ်ကြသည်။ ဟားကျူးလီးသည် ဘုရင်မကို သတ်၍ ခါးစည်းကို ယူခဲ့လေသည်။

ဒသမဆောင်ရွက်ချက်မှာ ဂျားရီးယွန် နွားထီးကြီးကို



ဂရိထုံးဟောင်းပုံပြင်တွင် ခွန်အား အကြီးဆုံးဟု ကျော်ကြားသော ဟားကျူးလီးရုပ်တု

ဖမ်းဆီးပေးရခြင်း ဖြစ်သည်။ ထိုနွားကြီးသည် ကိုယ်ခန္ဓာ သုံးခုရှိ၍ အီရစ်သီးယားကျွန်းတွင် ကျက်စား နေထိုင်သည်။ ထိုကျွန်းမှာ ဂျီဗရောတား ရေလက်ကြားအနောက်ဖက် အလွန်၌ တည်ရှိသည်ဟု ဆိုသည်။ ဟားကျူးလီးသည် မြေထဲပင်လယ် အနောက်ဖက်သို့ ခရီးသွားရာ၌ ဂျီဗရောတား ရေလက်ကြား တဖက်တချက်တွင် ကျောက်တိုင်များကို စိုက်ထူခဲ့လေသည်။ ထို ကျောက်တိုင်များကို "ဟားကျူးလီးကျောက်တိုင်" ဟု အမည် ခေါ်ဆိုကြသည်။

ကောဒသမ ဆောင်ရွက်ချက်မှာ ဟက်စပရီးဒီး နတ်သမီးညီအမ လေးဖော်ထံမှ ရွှေပန်းသီးများကို ဆောင်ကြဉ်းပေးရခြင်း ဖြစ်သည်။ ထိုရွှေပန်းသီးများသည် မြေကြီးစောင့် နတ်သမီးက ဟီးရ နတ်မိဖုရားအား လက်ဆောင်အဖြစ် ပေးခဲ့သော မင်္ဂလာလက်ဖွဲ့ ပစ္စည်းဖြစ်သည်။ ဟက်စပရီးဒီး နတ်သမီး လေးယောက်နှင့် မအိပ်မစက်နေသော နဂါးတကောင်က ထိုရွှေပန်းသီးများကို စောင့်ရှောက်ရသည်။ ဟားကျူးလီးသည် ဟက်စပရီးဒီးနတ်သမီးတို့၏ဖခင် အက်ဘလတ်၏ အကူအညီဖြင့် ပန်းသီးများကို ရရှိခဲ့သည်။ အက်တလတ်သည်ကား ကမ္ဘာကြီးကို ပခုံးထက်တွင် ထမ်းထားရသူဖြစ်သည်။ အက်တလတ်သည် ပန်းသီးများကို သွားရောက် ယူနေစဉ် ဟားကျူးလီးအား ကမ္ဘာကြီးကို ထမ်းထားစေသည်။ သို့ရာတွင် ပန်းသီးများကို ရရှိ၍ ပြန်ရောက်လာသောအခါ ကမ္ဘာကြီးကို မထမ်းလိုတော့သဖြင့် မိမိကိုယ်တိုင် ဘုရင့်ထံသို့ သွားရောက် ဆက်သမည်ဟု ဆိုလေသည်။ ထိုအခါ ဟားကျူးလီးက ပရိယာယ်ဖြင့် မိမိပခုံးပေါ်တွင် အခုအခံ ထားလိုသောကြောင့် ကမ္ဘာကြီးကို ခေတ္တပြန်ယူပါဟုဆို၍ ပခုံးပြောင်းလိုက်ပြီးနောက် ပန်းသီးများကိုယူ၍ ပြန်ခဲ့လေသည်။

နောက်ဆုံး ဆောင်ရွက်ချက်မှာ ဟေးဒီးခေါ် မရဏာ အရပ် အဝင်ဝကို စောင့်သော ဆာဗီးရပ်ခွေးကြီးကို ယူဆောင်ပေးရခြင်း ဖြစ်သည်။ ထိုခွေးကြီးတွင် ဦးခေါင်း သုံးလုံးရှိသည်။ ယူရစ်သုဘုရင်သည် ထိုကြောက်မက်ဖွယ် ကောင်းသော ခွေးကြီးကို မြင်လျှင် အလွန်ထိတ်လန့်သဖြင့် ဟားကျူးလီးအား ပြန်၍ ပို့ခိုင်းလေသည်။

ဟားကျူးလီးသည် မိမိအပြစ်ကြောင့် ခံရသော ဒဏ် ၁၂ မျိုးကို ဆောင်ရွက်ပြီးမြောက်သဖြင့် လွတ်လပ်သူ အဖြစ်ကို ပြန်လည်ရရှိလေသည်။ သို့ရာတွင် သူ၏မိတ်ဆွေ အီဖစ်တပ်ကို ဒေါသအလျောက် သတ်မိ၍ လစ်ဒီးယားဘုရင်မ အွမ်ဖာလီထံ၌ သုံး နှစ်မျှ အစေခံရသေးသည်။ ဟားကျူးလီးသည် ထိုကဲ့သို့ စိတ်လိုက်မာန်ပါ ပြုလုပ်တတ်သော်လည်း ဖိနှိပ်ချုပ်ချယ်ခြင်း ခံနေရသူများကိုလည်း စွန့်စားကယ်တင်လေ့ရှိသည်။ သူ၏ဘဝတလျှောက်တွင် ဘေးဒုက္ခ အမျိုးမျိုးနှင့် တွေ့ကြုံခဲ့ရသည့်နည်းတူ နောက်ဆုံး၌လည်း အသေဆိုး သေရလေသည်။

ဟားကျူးလီးသည် ဘုရင်မ အွမ်ဖာလီထံမှ လွတ်မြောက်ပြီးနောက် ဒီယနီရာဆိုသူ မင်းသမီးတဦးနှင့် လက်ထပ်ခဲ့သည်။ တရံရောအခါ သူနှင့် သူ၏ဇနီးတို့သည် မြစ်တမြစ်ကို ဖြတ်ကူးကြရာ၌ စင်းတော နက်ဆပ်အား ဇနီးကို တင်၍ ဖြတ်ကူးစေသည်။ နက်ဆပ်သည် ဒီယနီရာကို ခိုးပြေးရန် ကြံစည်သဖြင့် ဟားကျူးလီးက ဆိပ်လူးမြားဖြင့် ပစ်လိုက်လေသည်။ နက်ဆပ်လည်း တဖက်ကမ်းသို့ ရောက်၍ မြားဆိပ်ကြောင့် သေအံ့ဆဲဆဲတွင် ဒီယနီရာအား မိမိ၏သွေးကို လင်ယောကျ်ား ချစ်စေမည့် ပီယဆေးအဖြစ် ဆောင်ထားရန် မှာကြားခဲ့သည်။

မကြာမီ ဒီယနီရာက ဟားကျူးလီးသည် အခြားမိန်းမတဦးနှင့် ချစ်ကြိုက်နေသည်ဟူ၍ မသင်္ကာသဖြင့် နက်ဆပ်၏သွေး၌စိမ်ထားသောဝတ်ရုံကို ခင်ပွန်းထံသို့ပို့လေသည်။ ဟားကျူးလီးသည် ထိုဝတ်ရုံကို ဝတ်ဆင်သည်နှင့် တပြိုင်နက် တကိုယ်လုံးအဆိပ်တက်၍ ဝေဒနာပြင်းပြစွာ ခံရလေသည်။ထိုကြောင့် အိုအီတာတောင်ပေါ်သို့ ပြေးတက်ပြီးလျှင် မိမိကိုယ်ကို မီးသင်္ဂြိုဟ်ရန်အတွက် အလောင်းစင်ကို ပြင်လေသည်။ ဟားကျူးလီး ကိုယ်ကို မီးလောင်မြိုက်နေစဉ် ဇုနတ်မင်းကြီးက သူ၏ဝိညာဉ်ကို အိုလင်းပတ်တောင်ထိပ်ပေါ်သို့ယူဆောင်သွားလေသည်။လောကဆင်းရဲခြင်းမှ ကင်းလွတ်ပြီဖြစ်သော ဟားကျူးလီးသည်လည်း အိုလင်းပတ်တောင်ပေါ်တွင် အခြားနတ်သားများနှင့်အတူ ထာဝရချမ်းသာကို စံစားလျက်ရှိလေသတည်း။

စာပေလောကတွင် ဟားကျူးလီး အကြောင်းကို အမျိုးမျိုး ဖွဲ့ဆိုရေးသားခဲ့ကြသည်။ ဟားကျူးလီး၏ ခွန်အားကြီးမားပုံကိုလည်း ပန်းချီ၊ ပန်းပုစသော သုခုမပညာအားဖြင့် အမျိုးမျိုး သရုပ်ဖော်ခဲ့ကြသည်။ စွန့်စားခန်းများကို ဂုဏ်ပြုသည့်အနေဖြင့် ပွဲလမ်းသဘင်များကိုလည်း ကျင်းပလေ့ရှိကြသည်။ ဣတလီနိုင်ငံ နေပယ်မြို့ ပြတိုက်ရှိ ဟားကျူးလီး၏ ရုပ်တုသည် အထင်ရှားဆုံး အနုပညာလက်ရာ ဖြစ်ပေသည်။

**ဟားခါးမြို့**။ ။ချင်းဝိသေသတိုင်း မြောက်ပိုင်းတွင် တည်ရှိသော ဟားခါးမြို့သည် ဟားခါးမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ထိုပြင် ချင်းဝိသေသတိုင်း၏ ဦးစီးအဖွဲ့ ရုံးစိုက်ရာ မြို့တော်လည်း ဖြစ်သည်။ထိုမြို့သည် ဖလမ်းနှင့် မတူပီမြို့တို့အကြား၌ တည်ရှိရာ ဖလမ်းမြို့မှ ၄၃ မိုင် ဝေးကွာပြီးလျှင် မတူပီမြို့မှ ၁၀၈ မိုင် ဝေးကွာသည်။

ဟားခါးမြို့သည် ခရစ်နှစ် ၁၄၀၀ ခန့်က စတင်

တည်ထောင်ခဲ့သော ရွာကလေးတရွာမှ မြို့အဖြစ် တိုးတက်လာခဲ့ခြင်းဖြစ်သည်။ ထိုအချိန်အခါက ယခု ဖလမ်းမြို့နယ် ခွာရိုဟု ခေါ်သော ရွာအနီး၌ ဇိုတလန်း အမည်တွင်သော ရွာကြီးတရွာ ရှိသည်။ ထိုရွာကြီးမှ ခင်လောတ်နှင့် ဇာထန် ဆွေမျိုးစုတို့သည် အပေါင်းပါ အခြွေအရံများနှင့် တောင်ဖက်သို့ ဆင်းလာကြပြီးလျှင် ယခု ဟားခါး–ဖလမ်း ကားလမ်း၏ အောက်ဖက် ဟားခါးမြို့မှ သုံးမိုင်ခန့်အကွာတွင် ရွာတရွာကို တည်ထောင်ခဲ့ကြရာ ဖိုင်လင်းဇောသ်ရွာဟုအမည်တွင်ခဲ့သည်။ ထိုရွာမှတဖန် ရွှေ့ပြောင်းကြပြန်ပြီးလျှင် မွာလ်ဇုန်ခေါ် ရွာကို တည်ထောင်ကြပြန်သည်။ ထိုရွာ၌လည်း ကြာရှည်စွာ မနေကြပဲ ယခု ဟားခါးမြို့တည်ရာ အရပ်သို့ ရွှေ့ကြပြန်သည်။ ထိုနေရာ၌ ကား နှစ်ပေါင်းအတန်ကြာအောင် နေထိုင်ကြရာ လူဦးရေလည်း တိုးပွားလာလေသည်။

လူဦးရေ တိုးပွားလာလေသော် အချို့ လူစုတို့သည် ထိုအရပ်မှ ခွဲထွက်၍ အခြား ရေကြည်ရာ မြက်နုရာဒေသများ၌ ရွာတည်ကြပြန်သည်။ သို့သော် ဟားခါးရွာကို တည်ထောင်သူ ဆွေမျိုးစုတို့သည် ဩဇာ အာဏာ ကြီးမားသူများဖြစ်ကြသဖြင့် ဟားခါးရွာမှ ခွဲထွက်၍ သီးခြားရွာ တည်ကြသူများသည် ဟားခါးရွာတည်သူ ဆွေစဉ်မျိုးဆက်တို့အား အခွန်ပဏ္ဏာပေးကြရသည်။ ဟားခါးရွာတည်ခဲ့သူများသည် သက်ညှာ ထောက်ထားခြင်း မရှိပဲ အခွန်အကောက်များကို တောင်းခံခဲ့ကြသည်ဟု ဆို၏။ ထို့ကြောင့် အတောင်းအခံ ရက်စက်ခြင်းဟု အဓိပ္ပါယ်ရသော အမည်ဖြင့် ထိုဆွေစဉ်မျိုးဆက်တို့ နေထိုင်ရာရွာကို ခေါ်ဝေါ်ခဲ့ကြသဖြင့် ဟားခါးဟု အမည်တွင်ခဲ့ခြင်း ဖြစ်သည်။ ထိုလူမျိုးတို့၏ဘာသာစကားဖြင့် ဟား(လ်)သည် တောင်းခံသည့် အဓိပ္ပါယ်ရ၍ ခါးသည် မြန်မာ စကား အဓိပ္ပါယ်ကဲ့သို့ပင် ချိုသာခြင်း ကင်း၍ ရက်စက်ခြင်း အဓိပ္ပါယ်ရှိပေသည်။ ထို့ကြောင့် ဟား(လ်)ခါးဟု ခေါ်တွင်ရာမှ နောင်အခါ ဟားခါးဟူ၍ ပြောင်းလာသည်ဟု ဆိုကြလေသည်။

ဟားခါး ရွာတည်သော ဆွေမျိုးစုတို့၏ဩဇာအာဏာ အရှိန်အဝါသည် ချင်းတောင်ဒေသ၌ အတော်ပင် ကျယ်ပြန့်စွာ ပျံ့နှံ့ခဲ့သည်။ ခရစ် ၁ဂဂ၉–၉၀ ပြည့်နှစ်၊ ဗြိတိသျှတို့က ချင်းတောင်တန်းဒေသကို သိမ်းပိုက်သည်အထိ ထို



ချင်းဝိသေသတိုင်း ဦးစီးအဖွဲ့၏ ရုံးစိုက်မြို့ဖြစ်သော ဟားခါးမြို့၏ရှုခင်း



ချင်းဝိသေသတိုင်းမှ ဟားခါး အမျိုးသမီးများ

ဆွေမျိုးစုတို့၏ ဩဇာသည် အရှေ့ဖက်သို့ ယောနယ်၊ အနောက်ဖက်တွင် တောင်တန်းပြာဟု ခေါ်သော ယခု အိန္ဒိယနိုင်ငံ လူရှေ(လူရှိုင်း)တောင်တန်းဒေသ၊ တောင်ဖက်တွင် ရခိုင်တောင်တန်းဒေသအထိ အချိန်အဝါ ရှိနေခဲ့သေးသည်။ ဗိုလ်ချုပ် ဆိုင်မွန် ခေါင်းဆောင်သော ဗြိတိသျှ ဝန်ထမ်းတပ်သည် ယောနယ်၊ ကံရွာမှ ဟားခါးသို့ ချီတက်လာပြီးလျှင် ၁၈၉၀ ပြည့်နှစ် ဇန္နဝါရီလ ၁၉ ရက်နေ့တွင် မြို့ကို သိမ်းပိုက်လိုက်သည်။ ယင်းသို့ ချီတက်လာရင်း ၇၇ ရက် အတွင်း၌ ထိုဝန်ထမ်းတပ်သည် ၆၄ မိုင် ရှည်လျားသော မြည်းဝန်တင်လမ်းကို ဖောက်လုပ်ခဲ့ကြလေသည်။

ဟားခါးမြို့ကို သိမ်းပိုက်ပြီးနောက်တွင် ဂေါ်ရခါး တပ်ရင်းတခုမှ တပ်ဖွဲ့တဖွဲ့ကို မြို့စောင့်ထား၍ ဝန်ထမ်းတပ်သည် အုပ်ချုပ်ရေးဆိုင်ရာ အဆောက်အအုံများ၊ ဆေးရုံနှင့် အခြား အစိုးရအဆောက်အအုံများကို ဆောက်လုပ်၍ ထိုဒေသတဝိုက်၌ အုပ်ချုပ်ရေး ယန္တရားကို တဖြည်းဖြည်း တပ်ဆင်ခဲ့ကြလေသည်။

ယင်းသို့ တည်ထောင် ဆောက်လုပ်ခဲ့သဖြင့် ဗြိတိသျှ ခေတ်က ဟားခါးမြို့တွင် နယ်ပိုင်ဝန်ထောက်ရုံး၊ စစ်တန်းလျား၊ စစ်ဆေးရုံ၊ ငွေတိုက်ခွဲနှင့် စာတိုက် စသည်တို့သာ ရှိသည်။ ယခုအခါတွင်မူ ဆိုခဲ့သော အစိုးရ အဆောက်အအုံများအပြင် ဟားခါးမြို့သည် ချင်းဝိသေသ တိုင်း၏ မြို့တော်ဖြစ်လာသည်နှင့်အညီ အစိုးရဌာနပေါင်းစုံမှ တိုင်း အထွေထွေအုပ်ချုပ်ရေး ဦးစီးဌာနမှူးရုံး အစ ရှိသော တိုင်း အဆင့်နှင့် မြို့နယ် အဆင့် ဦးစီးဌာနရုံးများ၊ ကော်ပိုရေးရှင်းများကိုင်၊ တိုင်း ဦးစီး အဖွဲ့ ရုံးများကိုင်၊ ဖွင့်လှစ်ထားပြီး ဖြစ်သည့်ပြင် အစိုးရ တန်းမြင့်ကျောင်း တကျောင်းလည်း ရှိသည်။

မြို့၏ အကျယ်အဝန်းသည် စတုရန်းမိုင် သုံးမိုင်ခွဲခန့်ရှိ၍ မြို့ပေါ်ရှိ လူဦးရေသည် ၃,၁၁၇ ယောက်ဖြစ်သည်။ ယင်းတို့တွင် အများစုသည် လိုင်ခေါ် ချင်းလူမျိုးတမျိုးဖြစ်၍ များသောအားဖြင့် ခရစ်ယန် အယူဝါဒီများ ဖြစ်သည်။ နတ်ကိုးကွယ်သူများနှင့် ဗုဒ္ဓ အယူဝါဒီများလည်းရှိသည်။

မြို့နယ်အတွင်း နေထိုင်ကြသူများသည် တောင်ယာလုပ်ငန်းကိုသာ အဓိက လုပ်ကိုင်ကြသည်။ ဆန်စပါးနှင့် ပြောင်းကို အများအပြား စိုက်ပျိုးကြသည်။ တော်လှန်ရေး အစိုးရလက်ထက်တွင် တောင်ယာစနစ်ကို လှေကားထစ် စိုက်ပျိုးရေးစနစ်ဖြင့် အစားထိုးရန် စမ်းသပ်လုပ်ကိုင်လျက်ရှိရာ ဟားခါးမြို့နယ်အတွင်း၌ ဆန်စပါးအပြင် ဂျုံနှင့် ပဲအမျိုးမျိုး စိုက်ပျိုးရေး၌ အတော်အတန် အောင်မြင်လျက် ရှိပေပြီ။

သယ်ယူပို့ဆောင်ရေးနှင့် ကူးသန်းသွားလာရေးအဘွက် ကုန်းလမ်းခရီးကိုသာ အသုံးပြုကြရသည်။ တောဘောင်ထူထပ်သော ဒေသဖြစ်သဖြင့် ကုန်းကြောင်းခရီးသည်ပင် လွယ်လွယ်ကူကူ သွားလာရသည် မဟုတ်ပေ။ ဟားခါးမြို့မှ ဖလမ်းမြို့၊ တီးတိန်မြို့၊ ကလေးမြို့များသို့ ရာသီမရွေး သွားလာနိုင်သော လမ်းရှိသည်။ ဟားခါးမြို့မှ ပခုက္ကူခရိုင် ဂန့်ဂေါမြို့နှင့် တောင်ပိုင်း ချင်းတောင်ခရိုင် (မင်းတပ်ခရိုင်) သို့ သွားရန် မော်တော်ကားလမ်း ဖောက်လုပ်နေဆဲဖြစ်၍ ဟားခါးမှ မတူပီအထိ ခရီးလမ်း တဝက်ကျော်ကျော်ကို မော်တော်ကားများဖြင့် သွားလာနိုင်သည်။

မြို့နယ်အတွင်း ထင်ရှားသော တောင်ရိုး တောင်တန်းများမှာ ရွှန်းတောင်ထိပ် (ပေ ၇,၄၉၀)နှင့် ဟိုင်ထလန်းတောင်ထိပ်တို့ ဖြစ်ကြသည်။ ရွှန်းတောင်ခြေတွင် ဟားခါးမြို့တည်ရှိ၍ ထိုတောင်ထိပ်ပေါ်မှကြည့်လျှင် တောင်ခြေမှ ဟားခါးမြို့၏ ရှုခင်းကိုသာမက အနီးအနားရှိ ကျေးရွာများ၏ သဘာဝအလှကိုလည်း တွေ့မြင်ရသည့်ပြင် ဖလမ်းမြို့၏ ရီဝေမှိုင်းမှုန်၍ ရှုမငြီးဖွယ်ရာ မြို့ခင်း မြို့ကွက်ကိုလည်း တစိတ်တဒေသ လှမ်းမျှော်၍ မြင်တွေ့နိုင်ပေသည်။ ဟိုင်ထလန်းခေါ် ဒေသသည် ဟားခါးမြို့၏ အောက်ဖက်တွင် တည်ရှိ၍ တောသစ်သီးဝလံပင်များ ပေါများသည်။ ထိုသစ်သီးဝလံများ သီးချိန်တွင် မြို့သူမြို့သား လူငယ်လူရွယ်များသည် တပျော်တပါး သစ်သီးခူးထွက်ကြသော အစဉ်အလာ ရှိပေသည်။

ဟားခါးမြို့နယ်အတွင်း ရှေးထုံးစဉ်လာ ကျင်းပမြဲဖြစ်သော ပွဲတော်များမှာ ထော်ပွဲတော်နှင့် လှုံလှာပွဲတော်တို့ ဖြစ်ကြသည်။ လှုံလှာပွဲတော်သည် မိုးမကျမီ မေလလောက်၌ ကျင်းပသည်။ ထော်ပွဲတော်သည် ကောက်ပဲသီးနှံများ ဖူလုံစွာ ရရှိသည်ကို အကြောင်းပြု၍ ဝမ်းမြောက်ဝမ်းသာအထိမ်းအမှတ်ဖြင့် ကျင်းပသောပွဲတော်ဖြစ်သည်။ ထိုပွဲတော်ကို သီးနှံများ ရိတ်သိမ်းပြီးစအချိန် နိုဝင်ဘာ၊ ဒီဇင်ဘာလများတွင် ကျင်းပလေ့ရှိသည်။ ထိုပွဲတော်ကို သုံးရက်တိုင်တိုင် ကျင်းပ၍ ကွယ်လွန်ပြီးသော မိဖဆွေမျိုးများကိုလည်း ပွဲတော်ရက် အတွင်း၌ ပူဇော် ပသကြသည်။

အထက်ပါ ပွဲတော်များအပြင် လူကုံထံများက အခါမရွေး ကျင်းပလေ့ရှိသော ဘွေပွဲနှင့် ခေါင်ကျွဲပွဲတို့လည်း ရှိသေးသည်။ ထိုပွဲများမှာ ကျင်းပသူများ၏ အင်အားအလိုက် တိရစ္ဆာန်များကို သတ်ဖြတ်၍ မိမိတို့၏ ရွာသူရွာသားအပြင် အခြား ရွာသူရွာသားများကိုပါ ဖိတ်ခေါ်ကျွေးမွေးဧည့်ခံကာ ဂုဏ်ယူသော ပွဲများဖြစ်ကြလေသည်။

**ဟားခါးချင်း**။ ။ချင်းလူမျိုး — ရှု။

**ဟားဂရိး, ဂျိမ်း** (ခရစ်။ ၁၇၂၀ ခန့် – ၁၇၇၈)။ ။ ရှေးအခါက မြန်မာနိုင်ငံအပါအဝင် ကမ္ဘာ့နိုင်ငံအသီးအသီးရှိ အမျိုးသမီးများသည် ခြည်ငင်သည့်အတတ်ကို တတ်ကြရလေသည်။ ထိုအခါက လူများသည် စာရေး စာဖတ်ပင် မတတ်ကြသေးချေ။ ခြည်မျှင်၊ သို့မဟုတ် သိုးမွေးမျှင်များကို ငင်စဉ် ကျစ်ပေးနိုင်ကြရသည်။ သို့မှ ခြည်ကြိုး၊ သို့မဟုတ် သိုးမွေးကြိုးများကို ရရှိနိုင်မည် ဖြစ်ပြီးလျှင် ထိုကြိုးများဖြင့် အထည်များဖြစ်အောင် ရက်လုပ်နိုင်ကြလေသည်။

ထိုအခါ ဗိုင်းငင်ရာတွင် အသုံးပြုသော ကရိယာမှာ တုတ်တံတခုမျှသာ ဖြစ်သည်။ ထိုတုတ်တံ၏ အဖျားတဖက်တွင် အထစ်ကလေးတခု ပြုလုပ်ထားသည်။ ထို အထစ်ကလေးတွင် ကျစ်မည့်ခြည်စ၊ သို့မဟုတ် သိုးမွေးစကလေးကို ချည်ထားရသည်။ ထိုတုတ်တံကို ညီညာစွာ လည်နိုင်စေရန် အလည်တွင် ဘီးကလေးတခု တပ်ထား လေသည်။ အမျိုးသမီးက ခြည်ကို ငင်ပြီးလျှင် တုတ်ကို လှည့်ပေးလိုက်ခြင်းဖြင့် ခြည်မျှင်သည် ကျစ်ပြီး ဖြစ်သွားလေတော့သည်။ ကျစ်ပြီးကြိုးကို တုတ်တွင် ရစ်ထားလိုက်ရလေသည်။ အလုပ်တွင် ကျွမ်းကျင်သော အမျိုးသမီးသည် ညီညာ၍ သေးယဲပြီးလျှင် ခိုင်ခံ့သော ခြည်မျှင်များကို ပြုလုပ်ပေးနိုင်လေသည်။

ခြည်ငင်သည့် အလုပ်သည် အပြောလွယ်သော်လည်း လုပ်နေမကျလျှင် အတော်ပင် ခဲယဉ်းလေသည်။ လုပ်နေမကျသူ တဦးအဖို့ အတော်ကြာကြာပင် လေ့လာယူရလေသည်။ သို့သော် ရှေးခေတ် အမျိုးသမီးကလေးများသည် ထိုအလုပ်ကို ကျွမ်းကျင်စွာ လုပ်ကိုင်နိုင်ကြလေသည်။ ထိုသို့ဖြစ်သည်မှာ မိခင်နှင့် အစ်မများ လုပ်ကိုင်နေကြသည်ကို မြင်နေကျ ဖြစ်ခြင်းကြောင့် ဖြစ်ကောင်း ဖြစ်နိုင်ပေသည်။

ထိုနည်းဖြင့် ခြည်၊ သို့မဟုတ် သိုးမွေးများကို ငင်လာကြရာ နှစ်ပေါင်း အတော်ကြာသည့် တိုင်အောင် ခြည်ငင်သည့် စံနစ်သစ်ကို မတီထွင်နိုင်ခဲ့ကြချေ။ နှစ်ပေါင်း အတော်ကြာလာသည့် အခါတွင်မှ ဝင်ရိုးတံကို လည်စေနိုင်သော ဘီးကြီးတခုကို ထွင်နိုင်ခဲ့ကြလေသည်။ ထိုတီထွင်မှုသည် မပြောပလောက်ဟု ဆိုနိုင်သော်လည်း ထိုစဉ်အခါကမူ ကြီးမားသည့် တိုးတက်မှုကြီးတရပ်ဟုပင် ဆိုရပေမည်။

ထိုနောက်တွင်မှ မွေးဖွားသည့် ခုနှစ်နှင့် နေရာကိုပင် အတိအကျ မပြောနိုင်သော ပုဂ္ဂိုလ်တဦး၏ကျေးဇူးကြောင့် တကြိမ်လျှင် ပဌမဦ ခြည်မျှင်နှစ်မျှင် ငင်ခြင်းနှင့် ကျစ်ခြင်းတို့ကို ပြုလုပ်ပေးနိုင်သော စက်ကို တီထွင်နိုင်ခဲ့ လေသည်။ အဆိုပါ ပုဂ္ဂိုလ်ကြီးမှာ အင်္ဂလိပ်လူမျိုးဖြစ်ပြီးလျှင် သူ၏ အမည်မှာ ဂျိမ်း ဟားဂရိး ဖြစ်လေသည်။ အချို့က ထိုပုဂ္ဂိုလ်ကြီးသည် ၁၇၂၂ ခုနှစ်တွင် မွေးဖွားသည်ဟု ပြောကြ၍ အချို့ကမူ ၁၇၃၀ ပြည့်နှစ်တွင် မွေးဖွားသည်ဟု ဆိုကြသည်။ သူ မွေးသည့် နေရာကိုလည်း ထိုနည်းအတူ အတိအကျ မပြောနိုင်ကြချေ။

ဟားဂရိးသည် ၁၇၆၄ ခု နှင့် ၁၇၆၇ ခုနှစ်ကြားတွင် ပဌမ ခြည်မျှင်ပေါင်း ရှစ်မျှင်ကို တကြိမ်တည်းငင်ပြီးလျှင် ကျစ်ပေးနိုင်သော စက်တခုကို တီထွင်နိုင်ခဲ့လေသည်။ သို့သော် ဟားဂရိးသည် သူ၏စက်ကို ၁၇၇၀ ပြည့်နှစ်တိုင်အောင် မူပိုင်ခွင့် မှတ်ပုံမတင်ခဲ့ချေ။ ခြည်ငင်သူ အချို့သည် ဟားဂရိး၏ အိမ်သားများ အလုပ် တွင်ကျယ်သည်ကို မနာလို



အင်္ဂလိပ်လူမျိုး ဂျိမ်း ဟာဂရိဗ်း တီထွင်ခဲ့သော ချည်ငင်စက် ''စပင်းနင်းဂျင်နီ''

ကြချေ။ ထိုကြောင့် ထိုသူများက ဟာဂရိဗ်း၏ အိမ်ကို ဖျက်၍ ဝင်ကြပြီးလျှင် စက်ကို ဖျက်ဆီးပစ်လိုက်ကြလေသည်။ ဟာဂရိဗ်းသည် နော့တင်ဂမ်မြို့သို့ ပြောင်းရွှေ့သွားပြီးနောက် ၁၇၆၈ ခုနှစ်တွင် ချည်ငင်ပြီးလျှင် ကျစ်ပေးနိုင်သော စက်တလုံးကို တည်ဆောက်လိုက် လေသည်။ ဟာဂရိဗ်းသည် သူ၏စက်ကို မူပိုင်ခွင့်မှတ်ပုံ မတင်မီ စက်အချို့ကို ရောင်းချမိသဖြင့် သူ၏စက်အား မူပိုင်ခွင့် မှတ်ပုံတင်သော အခါတွင် မူပိုင်ခွင့် မှတ်ပုံတင်ခွင့် မရနိုင်တော့ချေ။ ထိုကြောင့် အခြားချည်ငင်စက် တည်ထောင်သူများသည် ဟာဂရိဗ်း တီထွင်ခဲ့သော စက်၏ နမူနာကို ယူကြပြီးလျှင် စက်များကို တည်ထောင်ကြလေသည်။ ထိုသို့ တည်ထောင်ကြသဖြင့် မူပိုင်ခွင့် မှတ်ပုံတင်ခွင့် မရရှိသော ဟာဂရိဗ်းအား ပိုက်ဆံ ကြေးငွေများပေးရန် မလိုကြချေ။ ထိုသို့ အသစ်တည်ထောင်ကြသော စက်များသည် ဟာဂရိဗ်း အသက်ရှင်စဉ်ကပင်လျှင် တကြိမ်တည်းနှင့် ချည်မျှင်ပေါင်း ၂၀ အထိ ငင်နိုင် ကျစ်နိုင်ကြလေသည်။

ဟာဂရိဗ်းသည် ကျွမ်းကျင်သည့် လက်သမားနှင့် ချည်ငင်သူတဦး ဖြစ်သဖြင့် တကြိမ်တည်းနှင့် ချည်မျှင်နှစ်မျှင် ငင်နိုင် ကျစ်နိုင်သော စက်တစက် ဖြစ်မြောက်ရေးအတွက် ကြံစည်၍ ပြုလုပ်နေလေသည်။ ထိုစဉ်အတွင်း သောင်၍နေသော ဘီးနှင့် အလျားလိုက် တည်ရှိသော ဝင်ရိုးတံနှစ်ချောင်းကို သူ၏ ကလေးတယောက်က လှဲပစ်လိုက်လေသည်။ ထိုအခါ ဝင်ရိုးတံများသည် ထောင်လိုက် ဖြစ်သွားကြကာ ချည်မျှင်များသည် တခုနှင့်တခု မတွဲကြတော့ပဲ ကွဲသွားကြသည်ကို ဟာဂရိဗ်း တွေ့ခဲ့လေသည်။ ထိုအခါမှ သူသည် အကြံရပြီးလျှင် ထိုစက်ကို တီထွင်နိုင်ခဲ့သည်ဟု ဆိုသည်။ ဟာဂရိဗ်းသည် ၁၇၇၈ ခုနှစ်တွင် ကွယ်လွန်လေသည်။

**ဟာဗေး, ဝီလျံ** (ခရစ် ၁၅၇၈ – ၁၆၅၇)။ ။ဝီလျံ ဟာဗေးသည် လူ၏ ကိုယ်ခန္ဓာအတွင်း၌ စံနစ်တကျ သွေးလှည့်ပတ်ပုံကို စတင် တွေ့ရှိခဲ့သော အင်္ဂလိပ်အမျိုးသား ဆရာဝန်ကြီး ဖြစ်သည်။ ထို အချက်ကို တွေ့ရှိရခြင်းဖြင့် အာဟာရဓာတ်ကို သွေးအားဖြင့် ကိုယ်ခန္ဓာရှိ တစ်ရှူးများသို့ ပို့ဆောင်ပေးကြောင်း သိရလေသည်။ တဖန် အာဟာရနှင့်ရင်း၊ သွေးနှင့်ရင်း စပ်ဆိုင်သော ဆေးဖက်ဆိုင်ရာ သုတေသန လုပ်ငန်းသစ်များလည်း ပေါ်ထွန်းလာလေသည်။

ဝီလျံ ဟာဗေးသည် ၁၅၇၈ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင် အင်္ဂလန်နိုင်ငံ၊ ဖုတ်စတုန်းမြို့၌ ဖွားမြင်ခဲ့၍ ကိမ်းဗရစ့်



လူ၏ကိုယ်ခန္ဓာအတွင်း၌ သွေးလှည့်ပတ်ပုံကို စတင်တွေ့ရှိသူ
ဝီလျံ ဟားဗေး

တက္ကသိုလ် ကေးယပ်ကောလိပ်ကျောင်း၌ ပညာသင်ကြားခဲ့သည်။ ထိုနောက် ဣတလီနိုင်ငံ၊ ပဒူအာမြို့သို့ သွားရောက်၍ ဆေးပညာကို သင်ကြားသည်။ ဆေးပညာ ပါရဂူဘွဲ့ကို ရရှိပြီးလျှင် ၁၆၀၂ ခုနှစ်၌ အင်္ဂလန်နိုင်ငံသို့ ပြန်ခဲ့လေသည်။ ၁၆၀၇ ခုနှစ်တွင် သမားတော် တက္ကသိုလ်အဖွဲ့ဝင်တဦး ဖြစ်လာ၍ လန်ဒန်မြို့၊ စိန်ဗာသောလမျူး ဆေးရုံ၌ သမားတော်အဖြစ် ခန့်အပ်ခြင်း ခံရသည်။

၁၆၁၆ ခုနှစ်တွင် ဟားဗေးသည် သမားတော်တက္ကသိုလ်၌ ဆေးပညာကို သင်ကြားပို့ချစဉ်က လူ၏ကိုယ်ခန္ဓာတွင်း၌ နှစ်လုံးသွေး လှည့်လည်ပုံကို သင်ကြားခဲ့လေသည်။ ထိုခေတ်က ကာယဗေဒကို လေ့လာသူတို့သည် လက်တွေ့အားဖြင့် မဟုတ်ပဲ၊ ရှေးဟောင်း စာပေအရသာလျှင် ကိုယ်ခန္ဓာအတွင်း၌ သွေးပျံ့နှံ့ကြောင်း ယေဘုယျအားဖြင့် လက်ခံထားကြသည်။ မည်သို့ မည်ပုံ လှည့်လည်ကြောင်းကိုမူကား အတိအကျ မသိကြချေ။ ဝီလျံ ဟားဗေးက နှလုံးသွေး ချက်မှန်မှန် ခုန်ခြင်းကြောင့် သွေးသည် သွေးလွှတ်ကြော၊ သွေးလွှတ်ကြော သိမ်၊ သွေးပြန်ကြောသိမ်၊ သွေးပြန်ကြော တို့အားဖြင့် ကိုယ်ခန္ဓာအတွင်း၌ စံနစ်တကျ လှည့်လည်ပုံကို ထုတ်ဖော်ခဲ့လေသည်။ အခြား ဆရာဝန်များက ဟားဗေး၏ တွေ့ရှိချက်ကို ရုတ်တရက် လက်မခံကြချေ။ သို့ရာတွင် ဟားဗေးမကွယ်လွန်မီအတွင်း ဆေးပညာလောက၌ သွေးလှည့်ပုံနှင့် စပ်လျဉ်း၍ သူ၏ အယူအဆကို ယုံကြည်လက်ခံလာကြလေသည်။ ထိုသို့ အားဖြင့် ဝီလျံ ဟားဗေးသည် နာမည်ကျော်ဆရာဝန်ကြီးအဖြစ် ထင်ရှားလာလေသည်။ ဟားဗေးသည် မျိုးပွားခြင်းနှင့်အသက်ရှူမှုနှင့် သက်ဆိုင်သော စာအုပ် စာတန်းများကို ရေးခဲ့သည်။ ပဌမ ဂျိမ်းဘုရင်နှင့် ပဌမ ချားဘုရင်တို့အတွက် ဘုရင့်သမားတော် အဖြစ်ဖြင့်လည်း အမှုထမ်းခဲ့သည်။ ဝီလျံ ဟားဗေးသည် ၁၆၅၇ ခုနှစ် ဇွန်လ ၃ ရက်နေ့တွင် ကွယ်လွန်ခဲ့ရာ ကင့်နယ်ရှိ ဖုတ်စတုန်းမြို့၌ အထိမ်းအမှတ် ရုပ်တုကို ထုလုပ် စိုက်ထူထားကြလေသည်။

**ဟားမီး။** ။ဂရိနတ်များ — ရှု။

**ဟိမဝန္တာတောင်။** ။အိန္ဒိယနိုင်ငံ၏ မြောက်ဖက်တွင် မြင့်မားစွာ တည်ရှိသော ဟိမဝန္တာတောင်တန်းကြီးသည် ကမ္ဘာပေါ်တွင် အလွန်ထင်ရှားလေသည်။ ထိုတောင်တန်းကြီးသည် အရှေ့မှ အနောက်သို့ မိုင်ပေါင်း ၁,၅၀၀ ရှည်သဖြင့် မြောက်အမေရိကတိုက်ရှိ အပလက်ချီယန်း တောင်တန်းလောက်သာလျှင် ရှိသည်။ တောင်တန်း အကျယ်မှာ မိုင် ၁၅၀ မှ ၂၀၀ ခန့် ရှိသဖြင့် တောင်အမေရိကတိုက်ရှိ အင်ဒီးတောင်လောက်ပင် မကျယ်ချေ။ သို့ရာတွင် အမြင့်၌ကား ကမ္ဘာပေါ်ရှိ မည်သည့်တောင်မျှ ဟိမဝန္တာတောင်ကို မမီချေ။ ဤသို့ တုဖက်ကင်းအောင် မြင့်သော အချက်ကြောင့် ထင်ရှားကျော်ကြားခြင်း ဖြစ်ပေသည်။ ဟိမဝန္တာတောင်၌ တောင်ထိပ်တောင်ထွတ် ပေါင်း ၄၀ ကျော် ၅၀ ရှိ၍ အနိမ့်ဆုံး တောင်ထိပ်သည်ပင်လျှင် အမြင့်ပေပေါင်း ၂၃,၀၀၀ ရှိသည်။ အမြင့်ပေပေါင်း ၂၉,၀၀၂ ပေ၊ သို့မဟုတ် ၅½ မိုင်ကျော် ရှိသော ဧဝရက် တောင်ထိပ်မှာ ကမ္ဘာပေါ်တွင် အမြင့်ဆုံးတောင်ထွတ် ဖြစ်လေသည်။ ဒုတိယ အမြင့်ဆုံးကား ဧဝရက်တောင်ထိပ်၏ အရှေ့ဖက် မိုင် ၁၀၀ ခန့်အကွာတွင်ရှိသည့် ၂၈,၁၄၆ ပေ မြင့်သော ကန်ချင်ဂျန်းဂါးတောင်ထိပ် ဖြစ်သည်။ (ဧဝရက်တောင်ထိပ် — ရှု။)

ဟိမဝန္တာ တောင်တန်းသည် အိန္ဒု မြစ်အကွေ့ကြီး၏ အနောက်ဖက်ရှိ ပမီးယား ကုန်းပြင်မြင့်မှ အရှေ့ဖက် ဗြဟ္မပုတ္တရ မြစ်အကွေ့ကြီးအထိတန်းကာ လောက်လေးကိုင်းသဖွယ် တည်ရှိပြီးလျှင် အိန္ဒိယမြောက်ပိုင်းရှိ အမြင့်ပေ ၁,၀၀၀ ခန့်ရှိသော လွင်ပြင်ဒေသနှင့် တိဗက် ကုန်းပြင်မြင့်တို့ကို ခြားထားလေသည်။ ဟိမဝန္တာ တောင်တန်းကြီးကို ဖြတ်သန်းတည်ရှိကြသော တောင်ကြားလမ်းများမှာ ကမ္ဘာပေါ်တွင် အမြင့်ဆုံး တောင်ကြားလမ်းများ ဖြစ်ကြလျက်၊ အမြင့်ပေပေါင်း ၁၅,၀၀၀၊ သို့မဟုတ် ၁၆,၀၀၀ ကျော် ရှိကြ



ဒါဂျီလင်မြို့မှနေ၍ ဆီးနှင်းဖုံးလွှမ်းထားသော ဟိမဝန္တာတောင်တန်းကြီးကို တွေ့ရပုံ

၏။ နိုဝင်ဘာလနှင့် မေလအကြားတွင် ထိုတောင်ကြားလမ်းများကို ဆီးနှင်းများဖုံးလွှမ်းနေသဖြင့် ဖြတ်ကျော်သွားလာရန်မဖြစ်နိုင်ပေ။ ထိုမြင့်လှသော တောင်ကြားတို့တွင် ရေခဲမြစ်များဖြစ်ပေါ်ကြလျက် တောင်ခြေများဆီသို့ တဖြည်းဖြည်း သက်လျှောသွားကြလေသည်။ ထိုရေခဲမြစ်များမှ အိန္ဒိယနိုင်ငံရှိ ဂင်္ဂါ၊ ယမုနာ၊ ဗြဟ္မပုတ္တရနှင့် အိန္ဒု မြစ်များသည် မြစ်ဖျားခံကြလေသည်။

ဟိမဝန္တာတောင်တန်းကြီးသည် လူများကိုသာ အသွားအလာ ခက်ခဲစေသည် မဟုတ်၊ တောင်ဖက်မှ တိုက်ခတ်လာသော ရေခိုးရေငွေ့များပါသည့် လေကိုလည်း တားဆီးထားသဖြင့် တောင်ဖက် တောင်စောင်းတွင် နှစ်စဉ် မိုးရေချိန်လက်မ ၈၀၀ ကျော်အထိ ရွာသွန်းသော်လည်း မြောက်ဖက်လေကွယ်ရာတိဗက်ကုန်းပြင်မြင့်တွင်မူမိုးခေါင်နေလေသည်။

တောင်တန်းတို့၏ အမြင့်မှာ အစားစား ကွဲပြားနေကြသည့် အလျောက် ဟိမဝန္တာတခွင်တွင် ရာသီဥတု အမျိုးမျိုးနှင့် အပင်အမျိုးမျိုးကို တွေ့ရှိနိုင်လေသည်။ မြေပြင်နှင့် ဆက်စပ်ရာ တောင်ခြေဒေသမှ ပေ ၅,၀၀၀ အထိမြင့်သော ဒေသများတွင် မိုးအခါ စိမ်းလမ်းလျက် နွေအခါ အရွက်ကြွေသော သစ်တော ဝါးတောကြီးများ ထူထပ်စွာ ပေါက်ရောက်နေသဖြင့် နေပြောက်ပင် မထိုးနိုင်ချေ။ တောင်ဖက်စောင်းတို့တွင် တောများကိုရှင်း၍ ပေ ၅,၀၀၀ အထိ မြင့်သော ဒေသများ၌ လက်ဖက်ပင်များကို အကြီးအကျယ်

စိုက်ပျိုးကြ၏။ ဒါဂျီလင်မြို့နှင့် အနီးအနား၊ တဝိုက်သည် အကောင်းဆုံးသော လက်ဖက်ခြောက်ထွက်ရာ ဒေသများ ဖြစ်ကြသည်။ ပေ ၆,၀၀၀ အထိမြင့်သော ဒေသများတွင် ဆန်စပါးနှင့် ပြောင်းများကို စိုက်ပျိုး၍ ထိုထက်မြင့်သော ဒေသများတွင် ဂျုံနှင့် ဗာလီများကို စိုက်ပျိုးကြလေသည်။ ပေ ၉,၀၀၀ ကျော်မြင့်သော ဒေသများတွင် ရွက်ချွန် ထင်းရှူးတောကြီးများ ပေါက်ရောက်ကြ၏။ ပေပေါင်း ၁၂,၀၀၀ ကျော်သောအခါ အေးမြလှသဖြင့် ထင်းရှူး တောများပင် မပေါက်ရောက်နိုင်တော့ပဲ မြက်များနှင့် ချုံ တောများကိုသာ တွေ့ရလေသည်။

ဟိမဝန္တာ တောင်တန်းတွင် အပူပိုင်း၊ သမပိုင်းနှင့် အအေးပိုင်း ဒေသများတွင် နေထိုင်ကြသော တိရစ္ဆာန် အမြောက်အမြားကို တွေ့နိုင်လေသည်။ မြင့်သော ဒေသ များတွင် ကျား၊ ကျားသစ်၊ ကြံ့၊ ဆင်၊ မျောက်နှင့် အောင်း များ နေထိုင်ကြသည်။ ပေ ၁၆,၀၀၀ အထက်၌ကား ဆီး နှင်းများ အမြဲဖုံးလွှမ်းလျက် ရေခဲတောင် ရေခဲမြစ်များသာ ဖြစ်နေတော့သည်။ဤသို့ တနှစ်ပတ်လုံးရေခဲလျက် ဆီးနှင်း များ ဖုံးလွှမ်းနေသောကြောင့်ပင် ဤတောင်တန်းကြီးကို ဟိမဝန္တာတောင်ဟု ခေါ်တွင်လေသည်။ ဟိမဝန္တာဟူသော အမည်မှာ သက္ကတ ဘာသာမှ လာ၍ ဆီးနှင်းများ အမြဲဖုံး လွှမ်းရာ ဒေသဟု အဓိပ္ပါယ်ရသည်။ ဆီးနှင်းများ ဖုံးလွှမ်း လျက် အေးမြသော လေထုကြောင့် တိမ်တောင်တိမ်လိပ်တို့ သည် ပေ ၂,၀၀၀ လောက် အမြင့်တွင် တလိပ်လိပ်တက်နေ သည်ကို မြင်ရသည်မှာ ဟိမဝန္တာတောင်ကြီးပင် မိုးကို ဖောက်၍တည်နေသလောဟုထင်မှတ်ရလေတော့၏။ ဤမျှ အံ့မခန်း မြင့်မားစွာ တည်ရှိနေသော ဟိမဝန္တာတောင်ကြီး ကို ဟိန္ဒူလူမျိုးတို့သည် နတ်တို့စံရာတောင်တန်းကြီးဟုပင် ယူဆ၍ အထူးရိုသေ လေးစားကြလျက် တနှစ်တကြိမ် တက်ရောက် ပူဇော်လေ့ ရှိကြလေသည်။

**ဟိဖက်စတပ်။** ။ဂရိနတ်များ — ရှု။

**ဟိန္ဒူဘာသာ နှင့် စာပေ။** ။ဟိန္ဒူဘာသာစကား သည် ခရစ်တော်မပေါ်မီ နှစ်ပေါင်း ၂,၀၀၀ ခန့်က ပယ် လက်စတိုင်နိုင်ငံတွင် ပြောဆိုသော ဘာသာစကားဖြစ် ၍ အလွန်ရှေးကျသော ဘာသာစကားတရပ် ဖြစ်သည်။ မူလဖြစ်သော ဆီမစ်တစ်ဘာသာမှ ဖြာထွက်လာသည့် ဘာသာ စကားလည်း ဖြစ်၏။ ဆီမစ်တစ်ဘာသာတွင်



ဟိမဝန္တာတခွင်တွင် ရာသီဥတုအမျိုးမျိုးနှင့် အပင်အမျိုးမျိုးကိုလည်း တွေ့ရှိနိုင်သည်။



ရှေးဟောင်း ဟီဗြူဘာသာနှင့် စာပေကို လေ့လာဖတ်ရှုနေပုံ

မြောက်ပိုင်း ဆီမစ်တစ်ဘာသာနှင့် တောင်ပိုင်း ဆီမစ်တစ်ဘာသာဟူ၍ ဘာသာစကား အကိုင်းနှစ်ကိုင်း ခွဲထွက်ခဲ့ရာ ဟီဗြူဘာသာ၊ ဖိနီရှန်းဘာသာ၊ အာရေးမစ်ဘာသာ၊ အဆီးရီးယန်းဘာသာတို့သည် မြောက်ပိုင်း ဆီမစ်တစ် ဘာသာ၌ ပါဝင်၍၊ အာရဗစ် ဘာသာနှင့် အီသီအိုးပစ် ဘာသာတို့သည် တောင်ပိုင်း ဆီမစ်တစ်ဘာသာ၌ ပါဝင်သည်။ ဟီဗြူဘာသာစကားသည် ဖိနီရှန်း ဘာသာစကားနှင့် အလွန်နီးစပ်သည်။

ဟီဗြူဘာသာတွင် စကားလုံးတို့သည် များသောအားဖြင့် တို၍ အသံထွက်လေးသည်။ အဓိပ္ပါယ်သက်ရောက်ပုံလည်း ကျယ်ဝန်းသည်။ ထိုကြောင့် ကဗျာစီကုံးရန်အတွက်သော်၎င်း၊ တရားစာ ရွတ်ဆိုရန်အတွက်သော်၎င်း အထူးပင် သင့်လျော်ပေသည်။ သဒ္ဒါနည်းနှင့်ဝါကျဖွဲ့ပုံတို့မှာ မခဲယဉ်းချေ။ သို့ရာတွင် နာမဝိသေသန စကားလုံးနှင့် ကြိယာဝိသေသန စကားလုံးဟူ၍ မရှိသောကြောင့် လူတဦးတယောက်၏ စိတ်ကူးစိတ်သန်းကို ဖော်ပြရာ၌ အခက်အခဲရှိသည်။ သို့ဖြစ်၍ ယခုခေတ် ဟီဗြူဘာသာ စကားသုံးစွဲသူတို့က အခြားသော ဘာသာမှ စကားလုံးများကို ယူ၍ဖြစ်စေ၊ စကားလုံးသစ်များကို တီထွင်ယူ၍ဖြစ်စေ ထိုချွတ်ယွင်းချက်ကို ဖြည့်စွက်ခဲ့ကြသည်။

မူလအစက ဟီဗြူဘာသာတွင် ဗျည်း အက္ခရာများသာရှိ၍ သရအက္ခရာများ မရှိချေ။ ခရစ်နှစ် အစပိုင်းတွင်မှ ဗျည်းအောက်နား၌ သရသံပြလက္ခဏာကို ထည့်သွင်း သုံးလာကြသည်။ ဟီဗြူစာကို ဖတ်သည့်အခါ လကျာဖက်မှ လက်ဝဲဖက်သို့ ဖတ်ရသည်။ စာအုပ်ကို ဖတ်ရာ၌လည်း နောက်ကျောဖက်မှ ရှေ့သို့ ပြန်ဖတ်ရသည်။

ဟီဗြူဘာသာစကား တိုးပွားလာခြင်းကို ခေတ်သုံးခေတ် ပိုင်းခြား၍ ဖော်ပြနိုင်သည်။ ပဌမ ခေတ်သည် တိုင်းတပါး မင်းတို့က ယဟူဒီလူမျိုးများကို ပယ်လက်စတိုင်နိုင်ငံမှ အဦးဆုံးအကြိမ် ဖမ်းဆီးထုတ်ဆောင်မသွားမီ ခေတ်ဖြစ်သည်။ ထိုခေတ်တွင် ဓမ္မဟောင်းကျမ်းရှိ စာစောင်များစွာတို့ကို ရေးသားခဲ့ကြသည်။ ဗက်ဗီလုံးနီးယန်းဘာသာ၊ အီဂျစ်ရှန်းဘာသာ၊ ပါးရှန်းဘာသာ၊ အာရေးမစ်ဘာသာတို့မှ အချို့သော စကားလုံးနှင့် စာလုံးပုံစံတို့ကို ဟီဗြူဘာသာ၌ ထည့်သွင်းရေးသားခဲ့ကြသည်။

ဒုတိယခေတ်သည် ယဟူဒီတို့ ပယ်လက်စတိုင် နိုင်ငံမှ ထွက်ခွာသွားရပြီး နောက်ပိုင်းဖြစ်သည်။ ထိုခေတ်အတွင်း ဓမ္မဟောင်းကျမ်းနှင့် အယူဝါဒဆိုင်ရာ စာပေများကို ပြုစုပြီးသည်။ ယဟူဒီလူမျိုးတို့သည် အာရေးမစ်ဘာသာစကားကို နေ့စဉ်ပြောဆို၍ စာပေ ရေးသားရာ၌လည်း အာရေးမစ်ဘာသာကို ပို၍ သုံးစွဲလာကြသည်။ ဓမ္မဟောင်းကျမ်းတွင် ဒန်နယ်ကျမ်း၊ အီဇရ(ဇေရ)ကျမ်းနှင့် ဂျရမိုင်းသား (ယေရမိ)ကျမ်း သုံးစောင်မှ အချို့သော

အခန်းများကို အာရေးမစ်ဘာသာဖြင့် ရေး၍၊ ကျန်တအုပ်လုံးကိုမူ ဟီဗြူဘာသာဖြင့် ရေးသည်။

တတိယခေတ်သည် ခရစ်တော်ပေါ်ပြီး နောက်ပိုင်းဖြစ်၍ ဟီဗြူဘာသာဖြင့် စာကြီး ပေကြီးများ ပေါ်ထွက်လာသော ခေတ်ဖြစ်သည်။ အေဒီ ၅၀၀ ပြည့်နှစ်ခန့်တွင် တယ်လမတ်ခေါ် ဓမ္မသတ်ကျမ်းတစောင် အထင်အရှား ပေါ်ထွက်ခဲ့သည်။ ထိုကျမ်းတွင် အပိုင်းနှစ်ပိုင်း ပါရှိရာ ပဌမပိုင်းကို မစ်ရှနာဟုခေါ်၍ ဒုတိယပိုင်းကို ဂင်းမာရာဟု ခေါ်သည်။ မစ်ရှနာသည် ဓမ္မဟောင်းကျမ်းဦးပိုင်းတွင် ဖော်ပြပါရှိသော ယဟူဒီတို့အတွက် တရားဥပဒေ ဖြတ်ထုံးများကို စံနစ်တကျ ဖော်ပြသည့် ကျမ်းဖြစ်၍ ဟီဗြူဘာသာဖြင့် ရေးထားသည်။ ဂင်းမာရာသည် မစ်ရှနာတွင် ပါရှိသော တရားဥပဒေများကို ရှင်းလင်းဖော်ပြသည့် ဋီကာပင်ဖြစ်၍ အာရေးမစ်ဘာသာဖြင့် ရေးထားသည်။ တယ်လမတ် ကျမ်းသည် ဥရောပတိုက်၊ အာရှတိုက်၊ အာဖရိကတိုက်ရှိ နိုင်ငံအသီးအသီးသို့ အန္တံအပြား ရောက်ရှိနေထိုင်ကြသော ယဟူဒီတို့၏ စာပေအဖြစ်၎င်း၊ အယူဝါဒကျမ်းအဖြစ်၎င်း တည်တံ့လျက်ရှိခဲ့ပေသည်။ ထိုကြောင့် ယဟူဒီလူမျိုးတို့သည် အရပ်ရပ်တွင် အကွဲကွဲအပြားပြား နေထိုင်ကြရစေကာမူ စာပေအားဖြင့်၎င်း၊ အယူဝါဒအားဖြင့်၎င်း တစည်းတလုံးတည်း ရှိကြသည်။ ယဟူဒီတို့၏ ကျောင်းများ၌ ဟီဗြူစာသင်ပေးကြသည်။ ဥရောပတိုက်တွင် အသိပညာတိမ်ကောသော "အမှောင်ခေတ်"၌ပင် လျှင် ယဟူဒီတို့သည် ဟီဗြူစာပေကို မတိမ်မြုပ်ရအောင် ထိန်းသိမ်းခဲ့ကြသည်။

အလယ်ခေတ် အတွင်းက ဟီဗြူ ဘာသာစကားပြေနှင့် ကဗျာလင်္ကာ အရေးအသားအချို့ ပေါ်ထွန်းလာသည်။ ထိုခေတ် စာရေးဆရာများအနက် ဂျူဒါ ဟာလေဗီဆိုသူသည် ထင်ရှားသည်။ သို့ရာတွင် ထိုစာပေတို့သည် များသောအားဖြင့် ကျမ်းစာ၏လျှို့ဝှက်သော အနက်အဓိပ္ပါယ်ကို ဖွင့်ပြချက်မျှသာ ဖြစ်သည်။

၁၇၅၀ ပြည့်နှစ်ခန့်ကစ၍ ဟီဗြူဘာသာတွင် ခေတ်စာပေဟူ၍ ပေါ်ထွက်လာသည်။ ရှေးအခါကတည်းက ယဟူဒီလူမျိုးတို့သည် မိမိတို့ရောက်ရှိရာ တိုင်းပြည်တွင် သုံးစွဲသော ဘာသာစကားကို အတုယူ၍ ရေးသားလေ့ရှိခဲ့ကြသည်။ မိမိတို့စာပေတွင် နာမဝိသေသန၊ ကြိယာဝိသေသန စကားလုံးသစ်များကို ထပ်ဖြည့်ခဲ့ကြသည်။ ပဌမရာစုနှစ်အတွင်းက "ယဟူဒီတို့စစ်ပွဲသမိုင်း"ကို ပြုစုခဲ့သူ ဂျိုးဇက် ဖပ်သည် ထိုစာအုပ်ကို ရှေးဦးစွာ အာရေးမစ်ဘာသာဖြင့် ရေး၍၊ နောင်တွင် လူအများ ဖတ်ရှုနိုင်သော ဂရိဘာသာဖြင့် ရေးခဲ့သည်။ ဂျာမနီနိုင်ငံတွင် နေထိုင်ကြသော ယဟူဒီ လူမျိုးတို့သည် ဂျာမန်ဘာသာစကားကို ပြောဆိုသုံးစွဲ၍ စာရေးသောအခါ၌မူကား ဂျာမန်ဘာသာကို ဟီဗြူအက္ခရာဖြင့် ရေးကြသည်။ ယဟူဒီတို့သည် ဂျာမနီနိုင်ငံမှ နှင်ထုတ်ခြင်း ခံရသောအခါ ဥရောပ အရှေ့ဖက် နိုင်ငံများသို့ သွားရောက် နေထိုင်ကြလေသည်။ ထိုအခါ ဟီဗြူဘာသာ စကားတွင် ဆလဗ စကားလုံးများဝင်၍ ရောပေါင်းလာသည်။ ယင်းသို့အားဖြင့် ဂျာမန်ဘာသာစကားမှ ပေါက်ပွားလာ၍ ဟီဗြူစကားလုံးနှင့် ဆလဗစကားလုံးများ ပါဝင်သော ယစ်ဒစ်ဘာသာစကားကို ယဟူဒီတို့ ပြောဆိုသုံးစွဲကြသည်။

ယခုအခါ အစ္စရီယယ်နိုင်ငံတွင် ဟီဗြူဘာသာစကားကို နေ့စဉ် ပြောဆိုသုံးစွဲ၍ ကျောင်းများ၌လည်း ထိုဘာသာဖြင့် သင်ကြားလျက်ရှိသည်။ ထိုကြောင့် ဟီဗြူစာပေသည် ဖွံ့ဖြိုး တိုးတက်လာသည်။ ဂျရူးဆလမ်းတက္ကသိုလ်တွင် သိပ္ပံပညာရပ်ကို ဟီဗြူဘာသာဖြင့်ပင် သင်ကြားပို့ချလျက်ရှိသည်။ အစ္စရီယယ်ရှိ စာရေးဆရာတို့ကလည်း နိုင်ငံသမိုင်း၊ သိပ္ပံပညာ၊ ကဗျာ၊ စာပေဝေဖန်ချက်၊ ဒဿနိကဗေဒစာမူန်၊ ကာလပေါ်ဝတ္ထု တို့ရှည်၊ သတင်းစာ စသည်တို့ကို ရေးသား ထုတ်ဝေလျက် ရှိကြသည်။ အစ္စရီယယ် မျိုးချစ်စာရေးဆရာ ရှမျူယယ် ယူဆက်အဂ္ဂနွန်သည် ၁၉၆၆ ခုနှစ် စာပေဆိုင်ရာနိုဗဲဆုကို ဆွတ်ခူးခဲ့သည်။

**ဟီမိုဂလိုဗင်။** ။သွေး — ရှု။

**ဟီရေ့ဒိုးတပ်** (ဘီစီ ၄၈၄ ခန့်–၄၂၄ ခန့်)။ ။ဟီရေ့



ဂရိကျမ်းပြုဆရာကြီး ဟီရေ့ဒိုးတပ်

ဒိုးတပ်သည် ဂရိစာပေလောကတွင် ထင်ရှားသော ကျမ်းပြု ပုဂ္ဂိုလ်ကြီးဖြစ်ပေသည်။ နိုင်ငံသမိုင်းဟူသော ကျမ်းမျိုး ကို ပဌမဦးဆုံး ရေးသားပြုစုခဲ့သူဖြစ်သောကြောင့် "နိုင်ငံ သမိုင်း၏ဖခင်''ဟု များသောအားဖြင့် ခေါ်တွင်လေသည်။ ဟီရော့ဒိုးတပ်သည် ပါးရှင်းတို့၏ လက်အောက်ခံဖြစ်သော အာရှမိုင်းနားကမ်းခြေရှိ ဟယ်လီကားနေးဆပ်တွင် ဖွား မြင်သော ဂရိအမျိုးသားဖြစ်သည်။

သူသည် ငယ်စဉ်ကပင် စာပေဖက်၌ ဝါသနာပါသည့် အပြင် ပင်လယ်နက် မြောက်ဖက်ကမ်းခြေဒေသ၊ ပါးရှား ပြည်၊ အီဂျစ်ပြည်၊ ဣတလီနှင့် စစ္စလီကျွန်း စသော အရပ် များသို့ ခရီးထွက် လှည့်လည်လျက် ထိုအရပ်အသီးအသီး တွင် နေထိုင်သူတို့၏ဓလေ့ထုံးစံ၊ အယူဝါဒနှင့် သမိုင်းတို့ကို စူးစမ်းလေ့လာခဲ့သည်။ ထိုကဲ့သို့ စုဆောင်းရရှိခဲ့သော အကြောင်းအချက်များကို သမိုင်းကျမ်းအဖြစ် ရေးသား ပြုစုခဲ့လေသည်။ ဟီရော့ဒိုးတပ် ပြုစုသော သမိုင်းကျမ်း သည် အတွဲ ကိုးတွဲပါဝင်၍ ပါးရှင်းအင်ပိုင်ယာ ကျယ်ပြန့် လာပုံ၊ ဘီစီ ၄၉၀ နှင့် ၄၈၀ ပြည့်နှစ်များတွင် ပါးရှင်းတို့ က ဂရိပြည်နယ်များကို တိုက်ခိုက်ပုံ၊ ဂရိတို့က ကျူးကျော် လာသူများကို ရှုပ်ရှပ်ချုံချုံခုခံ၍ နောက်ဆုံး၌ အနိုင်ရ လိုက်ပုံတို့ကို စိတ်ဝင်စားဖွယ်ကောင်းအောင် မှတ်တမ်း တင်ခဲ့သည်။ ထိုသမိုင်းကျမ်းတွင် သမိုင်းသက်သက်ကိုသာ မရေးပဲ မိမိခရီးထွက်လှည့်လည်စဉ်က တွေ့မြင် ကြားသိ ခဲ့ရသမျှ အကြောင်းအရာတို့ကို ထည့်သွင်း ဖော်ပြလေ သည်။ ထိုကြောင့် ဟီရော့ဒိုးတပ်၏ သမိုင်းကျမ်းသည် မြေထဲပင်လယ်• အရှေ့ပိုင်း ပတ်ဝန်းကျင်၌ တည်ရှိသော တိုင်းပြည်တို့နှင့် သက်ဆိုင်သည့် ရှေးခေတ် အခြေအနေ နှင့် သမိုင်းကို ဖော်ပြသော ကျမ်းဖြစ်သည်။ (နိုင်ငံ သမိုင်း — လည်းရှု။)

ဘီစီ ၄၄၇ ခုနှစ်ခန့်လောက်တွင် ဟီရော့ဒိုးတပ်သည် အက်သင်းမြို့သို့ သွားရောက် နေထိုင်ခဲ့သည်။ ထိုနောက် ဘီစီ ၄၄၃ ခုနှစ်ခန့်တွင် ဣတလီတောင်ပိုင်းရှိ ဂရိကိုလိုနီ သူရီး၌ ကွယ်လွန်သည်အထိ နေထိုင်ခဲ့လေသည်။



ဟီရိုရှီးမားမြို့သည် အနုမြူဗုံးပေါက်ကွဲမှုဒဏ်ကြောင့် တမြို့လုံးနီးပါးမျှ မီးလောင်ပျက်စီးခဲ့ရသည်။

**ဟီရိုရှီးမားမြို့။** ။ဟီရိုရှီးမား မြို့သည်၊ ဂျပန်နိုင်ငံ ဟွန်းရှူးကျွန်း တောင်ဖက် ကမ်းခြေပေါ်တွင် တည်ရှိသော ဆိပ်ကမ်းမြို့ ဖြစ်သည်။ အရှေ့မြောက်ဖက်နှင့် အနောက်မြောက်ဖက်တို့တွင် တောင်ကုန်းများ ခြံရံလျက် ရှိသည်။ ယွန်းထည်၊ ကြေးထည်နှင့် အလှအပ ကုန်ပစ္စည်းများ ထွက်၍ စက်မှုလုပ်ငန်းများလည်း ထွန်းကားသည်။

ဒုတိယကမ္ဘာစစ်အတွင်းက မဟာမိတ်တို့ဖက်မှ ဗုံးကြဲတိုက်ခိုက်ခြင်းကို အနည်းငယ်မျှလောက်သာ ခံခဲ့ရသည်။ သို့ရာတွင် ၁၉၄၅ ခုနှစ် ဩဂုတ်လ ၆ ရက်နေ့၌ အမေရိကန်လေတပ်သည် ဟီရိုရှီးမား မြို့ပေါ်တွင် အနုမြူဗုံး တလုံးကို ပဌမဦးဆုံး အကြိမ် ကြဲချခဲ့လေသည်။ ထိုအနုမြူဗုံးသည် မြို့လယ် အထက် ပေ ၁,၀၀၀ ခန့် အမြင့်တွင် ပေါက်ကွဲခဲ့ရာ၊ ဗုံးပေါက်ကွဲမှုဒဏ်ကြောင့် တမြို့လုံးနီးပါးမျှ မီးလောင်ပျက်စီးခဲ့ရလေသည်။လူဦးရေ သုံးသိန်းလေးသောင်းကျော်ရှိသည့် အနက်၊ လူပေါင်း ခုနစ်သောင်းရှစ်ထောင်ကျော် သေဆုံး၍ ငါးသောင်းကိုးထောင်ခန့် ဒဏ်ရာရရှိခဲ့ကြသည်။

၁၉၄၇ ခုနှစ်မှစ၍ မြို့ကို ပြန်လည်ထူထောင်ခဲ့ကြသဖြင့် တဖြည်းဖြည်း အရောင်းအဝယ် စည်ကားလာပြီဖြစ်သည်။ ၁၉၆၅ ခုနှစ်တွင် လူဦးရေ ၅၀၄,၀၀၀ ယောက်ခန့် နေထိုင်လျက်ရှိသည်။

**ဟီရိုဟီတို** (ခရစ် ၁၉၀၁ ဖွား)။ ။ဂျပန် ကေရာဇ်



•ဂျပန်ကေရာဇ် ဟီရိုဟီတို

ဟီရိုဟီတိုသည် ၁၉၀၁ ခုနှစ် ဧပြီလ ၂၉ ရက်နေ့တွင် တိုကျိုမြို့၌ ဖွားမြင်လေသည်။ သူ၏ ခမည်းတော်မှာ နေမင်းအနွယ်မှ ၁၂၃ ဆက်မြောက် ဆင်းသက်လာသည် ဆိုသော ဂျပန်ကေရာဇ် ယောရှိဟီတို ဖြစ်၏။ ဟီရိုဟီတိုမှာ သူ၏ အမည်ရင်းဖြစ်၍ တိုင်းသူပြည်သားများက တင်နိုဟေကာ (ကောင်းကင်သား)ဟု ခေါ်ဝေါ်ကြလေသည်။

ဟီရိုဟီတိုသည် တိုကျိုမြို့ရှိ မှူးမျိုး မတ်နွယ်တို့၏ သားများအတွက် ဖွင့်လှစ်ထားသော ကျောင်းတွင် ပညာသင်ကြားခဲ့သည်။ ၁၉၂၁ ခုနှစ်တွင် ခမည်းတော် နာမကျန်းဖြစ်၍ နန်းစောင့် ခန့်အပ်ခြင်းခံရလေသည်။ ဂျပန်ကေရာဇ်နှင့် တကွ အိမ်ရှေ့မင်းသားများသည် မည်သည့်အခါကမျှ ပင်လယ်ရပ်ခြား တိုင်းတပါးသို့ သွားရောက်လည်ပတ်သည် မရှိခဲ့။ ကြင်ယာ ကြင်ဖက် ရွေးချယ်ရာတွင်လည်း ဖူဂျီဝါရာ ဆွေမျိုးဆက်များမှသာလျှင် ရွေးချယ်ခဲ့ကြသည်။ ဟီရိုဟီတိုသည် ထိုရှေးအစဉ်အလာတို့ကို ရှေးဦးစွာဖောက်ဖျက်ပြီးလျှင် ၁၉၂၁ ခုနှစ်၌ ဂျပန်ကျွန်းမှ ခွာ၍ ဥရောပ၊ အာဖရိကနှင့် အာရှတိုက် စသည်ဖြင့် ကမ္ဘာပေါ်ရှိ နေရာအနှံ့အပြားသို့ လှည့်လည်ခဲ့လေသည်။ ထိုနောက် ၁၉၂၄ ခုနှစ် ဇန်နဝါရီလ ၂၆ ရက်နေ့တွင် ရှေးထုံးကို ပယ်၍ ဆတ်ဆုမာဆွေမျိုးဆက်မှ နဂါကိုကူနီ မင်းသမီးနှင့် လက်ဆက်ခဲ့ရာ သားတော်နှစ်ပါး၊ သမီးတော်ငါးပါး ထွန်းကားခဲ့သည်။ သားတော်အကြီး အိမ်ရှေ့မင်းသား အကိဟိတိုသည် ၁၉၃၃ ခုနှစ်တွင် ဖွားမြင်လေသည်။

၁၉၂၆ ခုနှစ် ဒီဇင်ဘာလ ၂၆ ရက်နေ့တွင် ခမည်းတော် (တိုက်ရှိုတင်နို ဘွဲ့ခံ) ယောရှိဟီတို နတ်ရွာစံသောအခါ ဟီရိုဟီတိုသည် ကေရာဇ် ဖြစ်လာလေသည်။ ဂျပန် ကေရာဇ်တို့သည် တိုင်းသူပြည်သားတို့၏ ဘုရားတဆူကဲ့သို့ အကြွင်းမဲ့ ကိုးကွယ်ခြင်းကို ခံယူရသောကြောင့် အနှောင့်အယှက် တစုံတရာ မရှိပဲ ကြီးကျယ်လှစွာသော နန်းဆောင်တို့တွင် စံစားခဲ့ရပေသည်။ ဟီရိုဟီတို၏ ခေတ်ကို "ရှိုဝါခေတ်" (တရားမျှတမှု အားဖြင့် ငြိမ်းချမ်းရေးခေတ်)ဟု ခေါ်စမှတ်ပြုကြသော်လည်း၊ ထိုခေတ်တွင် ပြည်တွင်း ဆူပူမှုများနှင့် ဂျပန်၏ နယ်ချဲ့စစ်ပွဲ များစွာကို တွေ့ကြရပေသည်။

၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့တွင် ကေရာဇ် ဟီရိုဟီတိုသည် အင်္ဂလိပ်နှင့် အမေရိကန်တို့အား စစ်ကြေညာခဲ့လေသည်။ ဒုတိယ ကမ္ဘာစစ်၏ ပဌမပိုင်းတွင် ဂျပန်သည် အာရှ အရှေ့တောင်ပိုင်းနှင့် ပစိဖိတ် သမုဒ္ဒရာ တဝိုက်တွင် ဆက်ကာဆက်ကာ အောင်ပွဲများရခဲ့၏။ ထို အတောအတွင်း၌ ကေရာဇ် ဟီရိုဟီတိုသည် ဇာတ်မြှုပ်နေခဲ့သော်လည်း စစ်ကြီး ပြီးဆုံးခါနီး၌မူ ဂျပန်တို့၏ စစ်အခြေအနေသည် တစထက်တစ ဆိုးရွားလာပြီဖြစ်ကြောင်း တိုင်းပြည်သို့ ကြေညာချက်တရပ် ထုတ်ပြန်ခဲ့လေသည်။



ဂျပန် ကေရာဇ် ဟီရိုဟီတိုကို မိသားစုနှင့်အတူ နန်းတော်အတွင်း၌တွေ့ရစဉ်

ထိုသို့ ကျေညာပြီးသည့်နောက်တွင် မဟာမိတ်တို့ဖက်မှ ခေါင်းဆောင်ကြီးများသည် ပို့စဒမ်မြို့၌ စည်းဝေးကာ ဖက်ဆစ်တို့အား အပြီးသတ် နိုင်နင်းသည် အထိ တိုက်ခိုက်ကြမည် ဖြစ်ကြောင်း အခိုင်အမာ ဆုံးဖြတ်၍ ကျေညာခဲ့သည်။ ထိုနောက် ဂျပန်နိုင်ငံရှိ ဟီရိုရှီးမားနှင့် နဂါဆာကီးမြို့များကို အနုမြူဗုံးများ ကြဲချခြင်း ခံရပြီးလျှင် ရုရှနိုင်ငံက ဂျပန်ကို စစ်ကျေညာပြန်လေသည်။

၁၉၄၅ ခုနှစ် မေလ ၂၅ ရက်နေ့တွင် အမေရိကန် လေတပ်က တိုက်ခိုက်၍ တိုကျိုမြို့ရှိ ဟီရိုဟီတို၏ နန်းတော်ကြီးမီးစွဲလောင်ကာ ပျက်စီးသွားလေရာ ကေရာဇ်နှင့် တကွ မိဖုရား သားတော် သမီးတော်တို့လည်း ဘုရင့် ဆွေတော်မျိုးတော်များ နေထိုင်ရာ နန်းငယ်ဘဆောင်သို့ ရွှေပြောင်းနေထိုင်ကြရလေသည်။ ထိုသို့ အနုမြူဗုံး ကြဲခံရ၍ ရုရှက စစ်ကျေညာပြီးသည့်နောက်တွင် ဂျပန်တို့သည် ကေရာဇ်ဟီရိုဟီတိုအား မူလ အခြေအနေကို လက်ရှိထားခွင့် ပြုမည်ဆိုလျှင် လက်နက်ချ၍ စစ်ကို ရပ်စဲလိုကြောင်းနှင့် မဟာမိတ်တို့ထံ အရေး ဆိုကြရလေတော့သည်။ ဂျပန်တို့သည် သူတို့၏ ကေရာဇ်အား သူတို့၏ အသက်နှင့် စည်းစိမ်ကို အကြွင်းမဲ့ ပိုင်ဆိုင်သူ ဖြစ်သည်ဟု ယုံကြည်ကြသဖြင့် ဤအခွင့်အရေးကိုမျှ မရလျှင် စစ်ရပ်စဲရေးသည် နှောင့်နှေးဖွယ်ရာ ဖြစ်ပေလိမ့်မည်။ ထိုကြောင့် ၁၉၄၅ ခုနှစ် ဩဂုတ်လ ၁၁ ရက်နေ့တွင် အမေရိကန် သမတ ထရူးမင်းက ဂျပန်တို့လက်နက်ချအပ်လျှင် ဂျပန် ကေရာဇ် ဟီရိုဟီတိုသည် အခိုက်အတန့်အားဖြင့် သူ၏မူလ အဆင့်အတန်း အတိုင်းပင် ရှိစေမည် ဖြစ်ကြောင်း၊ သို့သော် ဂျပန်နိုင်ငံ စစ်မျက်နှာရှိ မဟာမိတ်တပ်ပေါင်းစု စစ်သေနာပတိချုပ်၏ အုပ်ချုပ်မှု လက်အောက်တွင် ရှိရမည် ဖြစ်ကြောင်း ပြန်ကြားလိုက်လေသည်။ ထိုပြန်ကြားချက်ကို ရရှိပြီးနောက် လေးရက်အကြာတွင် ဂျပန် ကေရာဇ် ဟီရိုဟီတိုက မဟာမိတ်တို့ပြန်ကြားချက်တွင် ပါရှိသော အချက်အလက်များကို မိမိသဘောတူ လက်ခံကြောင်း အသံလွှင့် ကျေညာကာ ဂျပန်စစ်တပ်များကို တိုက်ခိုက်မှုရပ်စဲရန် အမိန့်ထုတ်ခဲ့သည်။

ဤသို့လျှင် စစ်ကြီး ပြီးဆုံးသွားသောအခါ ကေရာဇ် ဟီရိုဟီတိုအား အခြေမပျက်ပင် နေထိုင်ခွင့် ပြုထားခဲ့သော်လည်း သူ၏ တန်ခိုးအာဏာများကား မရှိတော့ချေ။ သူကိုယ်တိုင်ကလည်း ဂျပန်ကေရာဇ်တို့သည် နေမင်း၏ အနွယ်များ ဖြစ်၍ အခြားလူများကိုအုပ်စိုးရန် ဆင်းသက်လာသည်ဆိုခြင်းမှာ မှားယွင်းသော အယူအဆမျှသာ ဖြစ်ကြောင်း ဂျပန်နိုင်ငံနှင့်တကွ ကမ္ဘာသို့ ကျေညာခဲ့လေသည်။

စစ်ရေး ကိစ္စတွင် နန်းရင်းဝန် တိုဂျိုသည် သူ (ဂျပန်ဘုရင်)၏ စစ်အမိန့် အာဏာများကို အလွဲသုံးစားပြုသဖြင့် ဤမျှ အခြေအနေ ဆိုးရွားခဲ့ရကြောင်း ထုတ်ဖော်ပြောဆိုခဲ့လေသည်။ ဤအချက်နှင့် စပ်လျဉ်း၍ ဟီရိုဟီတိုသည် နေမင်း၏ အနွယ်ဖြစ်၍ နိုင်ငံရေးနှင့် မစပ်ယှက်သောကြောင့် ဂျပန်တို့ ကျူးကျော် တိုက်ခိုက်မှုများအတွက် မည်သို့မျှ တာဝန်မရှိဟု ဆိုလေသည်။ ထို့ပြင် ဟီရိုဟီတိုမှာ စစ်မလိုလားသော်လည်း စစ်ဖက် အာဏာပိုင်တစု၏အလိုကို မတွန်းလှန်နိုင်ပဲ ရှိခဲ့ရသည် ဟုလည်း ဆို၏။ သို့သော် အချို့က မန်ချူးရီးယားကို တိုက်ခိုက်သည်မှ အစ ပုလဲဆိပ်ကမ်းကို တိုက်ခိုက်သည် အထိ ဂျပန်တို့၏ ကျူးကျော်တိုက်ခိုက်မှုများကို ဟီရိုဟီတိုသည် သဘောတူညီခဲ့သည်ဟု ဆိုလေသည်။

၁၉၄၆ ခုနှစ်မှ စ၍ ဂျပန် ကေရာဇ် ဟီရိုဟီတိုသည် သာမန် တိုင်းသူပြည်သားတယောက် အဖြစ်သို့ ရောက်ရှိခဲ့ပြီးလျှင် သူ စိုးမိုးခဲ့သော တိုင်းပြည်ကို လှည့်လည်ကြည့်ရှုခဲ့လေသည်။ ၁၉၄၇ ခုနှစ်၌ နန်းရင်းဝန် တိုဂျို အမှူးရှိသော ဂျပန် စစ်တရားခံများကို ပြစ်မှုထင်ရှား၍ သေဒဏ် စီရင်လိုက်သော အချိန်တွင် ဂျပန် ပြည်သူပြည်သားများက အစဉ်အလာ ယုံကြည်ချက်များအရ ဂျပန် ကေရာဇ်သည် သူ၏လူများ ပြုသမျှ အပြစ်များအတွက် တာဝန်ခံရမည် ဖြစ်သောကြောင့် ထီးနန်း စွန့်လွှတ်ရလိမ့်မည်ဟု ထင်ကြသည်။ သို့ရာတွင် ဟီရိုဟီတိုကမူ ဂျပန်နိုင်ငံ အုပ်ချုပ်ရေးသစ်များနှင့် စပ်လျဉ်း၍ ပြုပြင်ရန် လိုအပ်သော အချက်များစွာကို ဖြစ်မြောက်အောင် ဆောင်ရွက်ရန်မှာ မိမိ ထီးနန်း လက်ရှိထားမှသာ ပိုမို လွယ်ကူမည် ဖြစ်ကြောင်း ပြောဆိုခဲ့လေသည်။

ဂျပန် စစ်တရားခံများကို ကြားနာ စစ်ဆေးရာတွင် ပါဝင်ခဲ့သူ ဩစတြေးလီးယား နိုင်ငံမှ ဆာ ဝီလျံ ဝက်က ဟီရိုဟီတိုအား စစ်တရားခံအဖြစ် ခိုတင် စစ်ဆေးသင့်သည်ဟု ယူဆခဲ့သည်။ သို့ရာတွင် အမေရိကန် ပြည်ထောင်စုနိုင်ငံ တွဲဖက် စစ်ဦးစီးချုပ်က ဂျပန်ရှိ စစ်သေနာပတိချုပ် မက်အာသာသို့ ဟီရိုဟီတိုအား ၁၉၄၅ ခုနှစ်က ဆိုဗီယက်ရုရှ အပါအဝင် မဟာမိတ်တို့ သဘောတူ ဆုံးဖြတ်ခဲ့ပြီးဖြစ်သည့် အတိုင်း တစုံတရာ အရေးမယူပဲထားရန် ပြောကြားခဲ့သည်ဟု ၁၉၄၉ ခုနှစ်တွင် သိရှိခဲ့ရလေသည်။ ဟီရိုဟီတိုသည် ရေအောက်လောကတွင် များစွာ စိတ်ဝင်စားသူ ဖြစ်၍ ရေနက်ပိုင်းရှိ ရေမြင်း (ငါး)များ အကြောင်း စာအုပ်တအုပ်ကို ပြုစုလျက်ရှိသည်။

**ဟီလီယမ်။** ။ဟီလီယမ်သည် အဆင်း၊ အနံ့နှင့် အရသာ မရှိသော ဓာတ်ငွေ့ဖြစ်သည်။ ထိုဓာတ်ငွေ့သည် မီးမလောင်နိုင်သည့် အပြင် အဆိပ်ဓာတ်လည်း မရှိချေ။ ယင်း၏ ဓာတု သင်္ကေတမှာ He ဖြစ်ပြီးလျှင် အက်တမ် နံပတ်စဉ်နှင့် အက်တမ် အလေးဆတို့မှာ နှစ် နှင့် လေး အသီးအသီး ဖြစ်သည်။ ယင်း၏ သိပ်သည်းဆမှာ ၀.၁၃၈၁ ဖြစ်သည်။ ရေ၊ သို့မဟုတ် အခြားအရည်များတွင် အနည်းငယ်မျှသာ ပျော်ဝင်နိုင်လေသည်။ အက်တမ် တခုတည်းအဖြစ် တည်ရှိသည်။ သိရသမျှ ပစ္စည်းများတွင် ဟိုက်ဒြိုဂျင်မှ အပ အပေါ့ဆုံး ပစ္စည်းဖြစ်သည်။ ဓာတ်သဘောအရ ဟီလီယမ်သည် ရှားပါး၍ အစွမ်းမဲ့သော ဓာတ်ငွေ့ အုပ်စုဝင် ဖြစ်ပြီးလျှင် ထိုအုပ်စုတွင် နီယွန်၊ အာဂွန်၊ ကရစ်ပတွန်၊ ဇီနွန်နှင့် ရေဒွန်တို့ ပါဝင်သည်။ အစွမ်းမဲ့ ဆိုသည်မှာ ဓာတ်သဘောအရ အခြားပစ္စည်းများနှင့် မပူးပေါင်းခြင်းကို ဆိုလိုသည်။

ဟီလီယမ် ဓာတ်ငွေ့သည် မီးမလောင်သဖြင့် ယင်းအား လေသင်္ဘောများနှင့် မီးအိမ်ပုံများတွင် အသုံးပြုကြလေသည်။ ရှေးအခါက ဟိုက်ဒြိုဂျင် ဓာတ်ငွေ့ကို အသုံးပြုခဲ့ကြသော်လည်း ဟိုက်ဒြိုဂျင် ဓာတ်ငွေ့သည် မီးလောင်လွယ်သဖြင့် ဟိုက်ဒြိုဂျင်အစား ဟီလီယမ်ကို အသုံးပြုကြခြင်း ဖြစ်သည်။

ဟီလီယမ် ဆိုသည့် စကားလုံးသည် နေဟု အဓိပ္ပါယ်ရသော ဂရိ စကားလုံးမှ ဆင်းသက်လာခြင်း ဖြစ်သည်။ ထိုသို့ အမည်ပေးခြင်းမှာ နေ၏ လေထုအတွင်းမှ ယင်းကို စပက်ထြိုစကုပ် (ရောင်စဉ်ကြည့် ကရိယာ)ဖြင့် စတင်၍ တွေ့ရှိခဲ့ခြင်းကြောင့် ဖြစ်သည်။ ၁၈၆၈ ခုနှစ်၌ နေကြတ်သည်ကို အိန္ဒိယနိုင်ငံမှ ကြည့်ရှုစဉ် စတင်၍ တွေ့ရှိခဲ့ခြင်း ဖြစ်သည်။ ၁၈၉၅ ခုနှစ်သို့ ရောက်သောအခါ ဆာ ဝီလျံ ရမ္မဆေးက အစွမ်းမဲ့ ဓာတ်ငွေ့တမျိုးကို ခွဲထုတ်ပြီးလျှင် ရောင်စဉ်ကြည့် ကရိယာဖြင့် စမ်းသပ်ကြည့်သော အခါတွင် ၁၈၆၈ ခုနှစ်က တွေ့ရှိခဲ့သော အဝါရောင် အလင်းကြောင်းကို တွေ့ရှိ ပြန်လေသည်။ ထိုဓာတ်ငွေ့သည်လည်း နေ၌ တွေ့ရသော ဓာတ်ငွေ့ပင်ဖြစ်ကြောင်း ထင်ရှားစွာ သိမြင်လာသဖြင့် ယင်းကို ထိုအမည်ပေးခြင်း ဖြစ်သည်။ (ရမ္မဆေး, ဆာ ဝီလျံ — လည်းရှု။)

ဟီလီယမ်ကို အခြားနေရာ အများအပြား၌လည်း တွေ့ရှိနိုင်ပေသေးသည်။ သို့သော် နည်းပါးသည်။ ကမ္ဘာ့

လေထုအတွင်း၌ ၁၇၅,၀၀၀ ပုံတပုံသည် ဟီလီယမ်ဖြစ်သည်။ မီးတောင်ဓာတ်ငွေ့များ အတွင်းနှင့် ဆေးစမ်းများအတွင်းရှိ ဓာတ်ငွေ့များအတွင်း၌လည်း ဟီလီယမ် အနည်းအကျဉ်း ရှိလေသည်။ ရေဒီယမ်မှလည်း ဟီလီယမ်ကို ဖြစ်စေသေးသည်။ ထုံအုံပြဖွယ်ကောင်းသော ဒြဗ်စင်သည် အမြဲသဖြင့် ပြိုကွဲပြီးလျှင် အခြားပစ္စည်းများကို ဖြစ်ပေါ်စေသည်။ အခြား ရေဒီယိုသတ္တိကြွသော ပစ္စည်းများမှ ဟီလီယမ်ကို ဖြစ်ပေါ်စေသေးသည်။ သိုရီယမ်သည် ရေဒီယိုသတ္တိကြွသော ပစ္စည်းတမျိုး ဖြစ်လေသည်။ အချို့ သိပ္ပံပညာရှင်များက ကမ္ဘာ့ဟီလီယမ်သည် ထိုပစ္စည်းမှ ဖြစ်ပေါ်လာခြင်း ဖြစ်သည်ဟု ယုံကြည်ကြလေသည်။

ပဌမ ကမ္ဘာစစ် (၁၉၁၄–၁၈) အတွင်းက မီးလောင်တတ်သော ဟိုက်ဒြိုဂျင်ကို သုံး၍ လေသင်္ဘော ပျက်စီးသွားသဖြင့် ဟိုက်ဒြိုဂျင်အစား ဟီလီယမ် ဓာတ်ငွေ့ကို အသုံးပြုကြသဖြင့် အမေရိကန် ပြည်ထောင်စုသည် ထိုဓာတ်ငွေ့ကို ထုတ်ယူရန် ကြံခဲ့လေသည်။ ၁၉၁၅ ခုနှစ်တိုင်အောင် ကမ္ဘာတွင် ထွက်သော ဟီလီယမ်၏ ပမာဏမှာ ၁၀၀ ကုဗပေပင် မရှိတတ်ဟု ထင်ရပေသည်။ ထိုအခါက ကမ္ဘာတွင် ထိုဓာတ်ငွေ့၏ ပေါက်ဈေးမှာ ကုဗတပေလျှင် ပေါင်ပေါင်း ၃၄၀ ခန့် ရှိလေသည်။ သိပ္ပံပညာရှင်များက ကနေဒါနှင့် အမေရိကန် ပြည်ထောင်စု အတွင်း၌ စက်များ တည်ထောင်ကြပြီးလျှင် သဘာဝ ဓာတ်ငွေ့များမှ ဟီလီယမ်ကို ထုတ်ယူကြလေသည်။ ဟီလီယမ် ဓာတ်ငွေ့ကို ထုတ်ယူလိုသောအခါ အလွန်ကြီးမားသည့် ဖိအားဖြင့် သဘာဝဓာတ်ငွေ့ကို အေးစေပြီးလျှင် ကျယ်ပြန့်သွားစေရသည်။ ထိုသို့ ကျယ်ပြန့်သွားသောအခါ အလွန်အေးသွားသဖြင့် သဘာဝဓာတ်ငွေ့တွင် ပါဝင်လျက်ရှိသော ဓာတ်ငွေ့များ အားလုံးသည် ဟီလီယမ်မှလွဲလျှင် အရည်ဖြစ်ကုန်ကြသဖြင့် လွယ်ကူစွာဖြင့် ခွဲထုတ်ယူနိုင်လေသည်။ ထိုနည်းဖြင့် ဟီလီယမ် ဓာတ်ငွေ့ကို ယခင်ကထက် ဈေးပေါ၍ ရောင်းချနိုင်ပေသည်။

ဟီလီယမ် ဓာတ်ငွေ့ကို ပကတိ သုညအထက် ၅.၂ ဒီဂရီ စင်တီဂရိတ်တွင်သာ အရည်ပျော်အောင် လုပ်နိုင်ပြီးလျှင် ထိုအပူချိန် ဒီဂရီအောက်၌ ကြီးမားသည့် ဖိအားဖြင့် ဟီလီယမ်ကို အခဲဖြစ်အောင် လုပ်ယူနိုင်လေသည်။

**ဟီးဗီး။** ။ဂရိနတ်များ — ရှု။

**ဟီးရ။** ။ဂရိနတ်များ — ရှု။

**ဟူးကောင်းတောင်ကြား။** ။မြန်မာနိုင်ငံမြောက်ပိုင်း ကချင်ပြည်နယ်၊ မြစ်ကြီးနားခရိုင် အတွင်း၌ ရှိသော ဟူးကောင်းတောင်ကြားသည် ရှေးအခါက ပယင်းအတွက် ကောင်းသောဒေသအဖြစ် ကျော်ကြားခဲ့သည်။ ယင်းသည် ၅,၅၇၆ စတုရန်းမိုင်ကျယ်ဝန်းသော ချိုင့်ဝှမ်းကြီးဖြစ်၍ အရှေ့၊ အနောက်နှင့် မြောက်ဟူသော သုံးဖက်သုံးမျက်နှာ၌ ကျော်ဖြတ်ရန် ခဲယဉ်းသည့် မြင့်မားသော တောင်တန်းကြီးများဖြင့် ကာဆီးလျက်ရှိပြီးလျှင် တောင်ဖက်၌မူ တောင်ကုန်းနိမ့်များရှိရာ ထိုမှဖက်မှ ဟူးကောင်းချိုင့်ဝှမ်း အတွင်းသို့ ဝင်ရောက်ရန်မှာမူ မခဲယဉ်းလှချေ။

အနောက်ဖက်ရှိပေ ၈,၀၀၀ ကျော်မြင့်သော ပတ်ကိုင်တောင်တန်းသည် ချင်းတွင်းမြစ်နှင့် ဗြဟ္မပုတ္တရ (အိန္ဒိယနိုင်ငံ) မြစ်တို့၏ မြစ်လက်တက်များ မြစ်ဖျားခံရာ ရေဝေကုန်းတန်းဖြစ်သည်။ ဟူးကောင်းချိုင့်ဝှမ်း၏ အရှေ့မျက်နှာကို ကာဆီးလျက်ရှိသော ကုမွန်တောင်တန်းသည် ချင်းတွင်းမြစ်နှင့် ဧရာဝတီမြစ်တို့၏ မြစ်လက်တက်များ မြစ်ဖျားခံရာ ရေဝေကုန်းတန်းဖြစ်သည်။ ထိုချိုင့်ဝှမ်းကြီး၏ အရှေ့ဖက်နှင့် အနောက်ဖက် ရေဝေကုန်းတန်းတို့မှ ချောင်းကြီး ချောင်းငယ် အသွယ်သွယ်တို့သည် ချိုင့်ဝှမ်း၏ အလယ်ဗဟိုဖက်သို့ စီးဆင်းလာရာမှ စုပေါင်းပြီးလျှင် ချင်းတွင်းမြစ်၏ အကြီးဆုံး မြစ်လက်တက်ဖြစ်သော တနိုင်ခကို ဖြစ်ပေါ်စေသည်။ ပတ်ကိုင်တောင်၏ မြောက်ဖက် တောင်ကြားဒေသ တနေရာ၌ ချင်းတွင်းမြစ် ဖြစ်ပေါ်စေသော မြစ်ငယ်တစင်းနှင့် ဗြဟ္မပုတ္တရမြစ်၏ မြစ်လက်တက် တခုတို့ ဆုံ၍ စီးဆင်းရာ ယင်းနေရာကို ဟူးကောင်းတောင်ကြားလမ်းဟု ခေါ်ဆို၍ အာသံပြည်နယ်သို့ လမ်းပေါက်နိုင်သည်။ ထိုတောင်ကြားလမ်းကို မြန်မာနိုင်ငံ၏ အနောက်ဖက် တံခါးပေါက်ဟုလည်း ခေါ်ဆိုကြလေသည်။ ဒုတိယကမ္ဘာစစ်အတွင်းက အာရှတိုက် ပြန်လည်သိမ်းပိုက်နိုင်ရေးအတွက် မဟာမိတ်တပ်များ ဆောက်လုပ်ခဲ့သော လီဒိုလမ်းမကြီးသည် ထိုတောင်ကြားလမ်းကို ဖြတ်ကျော်သွားလေသည်။ (လီဒိုလမ်း — လည်းရှု။)

ဟူးကောင်းချိုင့်ဝှမ်းကြီးသည် အလယ်၌ ပြန့်ပြူးသော်လည်း နံဘေးတလျှောက်တွင် တောင်ကုန်း တောင်နှာမောင်းတို့သည် အပြတ်အပြတ် တည်ရှိနေကြရာ ယင်းတို့သည် မြေပြင်မှ ရုတ်ခြည်း ထွက်ပေါ်လာသည့် အလား ထင်မြင်ရသည်။ အနောက် တောင်ဖက်ရှိ တောင်ကုန်းနိမ့်များတွင် ပယင်းတွင်းများ တည်ရှိခဲ့သည်။ ပယင်းတွင်းများ အများအပြားရှိခဲ့သော တောင်ကုန်းကို နန်ဂို–တိုင်း–မောဟု ခေါ်၍၊ ငါးမိုင်ခန့် ရှည်လျားပြီးလျှင် တောင်နှင့်မြောက် သွယ်တန်းလျက်ရှိသည်။ ယင်းတောင်ကုန်းသည် ယခု မိုင်းခွမ်းမြို့နှင့် သုံးမိုင်ခန့် ကွာဝေးသည်။ ပယင်းအတွက်ကောင်းစဉ်က ထိုလုပ်ငန်းကို တရုပ်လူမျိုးများက လက်ဝါးကြီးအုပ် လုပ်ကိုင်ခဲ့သည်။ ဗြိတိ

သျှတို့လက်အောက် ရောက်ခဲ့ပြီးသည့်တိုင်အောင် ပယင်းလုပ်ငန်း ကောင်းနေခဲ့သေးသော်လည်း နောက်ပိုင်းတွင်မူ ပယင်းအထွက် နည်းလာခဲ့လေသည်။

ဗြိတိသျှတို့လက်အောက် ရောက်စက ဟူးကောင်းတောင်ကြားမှ ပယင်းအပြင် ဆားနှင့် ညောင်ကြက်ပေါင်တို့လည်း အထွက်ကောင်းခဲ့သည်။ ယခုမူ ယင်းတို့လည်း အထွက်နည်းသွားလေပြီ။ ဟူးကောင်းတောင်ကြားသည် နှစ်စဉ် မိုးရေချိန်လက်မ ၁၅၀ ခန့် ရရှိ၍ မိုးကောင်းသောဒေသဖြစ်သဖြင့် သစ်တော ထူထပ်သည်။ ယခင်က ချိုင့်ဝှမ်းကြီး တခုလုံးသည် မြက်ခင်းပြင်များ၊ ယာခင်းများ၊ ရွာကြီးရွာငယ်များ ကွက်တိ ကွက်ကြား ရှိသော အမြဲစိမ်းသစ်တောကြီးသဖွယ် ဖြစ်ခဲ့သည်။ ထိုသစ်တောကြီးသည် အထက်မြန်မာနိုင်ငံတွင် အကျယ်ပြန့်ဆုံး ဖြစ်ခဲ့၍ တောင်ဖက်ကျသောအပိုင်းတွင် အင်တိုင်းမှသွဲလျှင် တနသ်ာရီသစ်တောများ၌ ပေါက်ရောက်သော သစ်ပင်မျိုးကို တွေ့ရသည်။ ယခုမူ သစ်တောများ ယခင်ကလောက် မထူထပ်တော့ချေ။

မိုးကောင်းသော ဒေသဖြစ်ပြီးလျှင် ချိုင့်ဝှမ်းအတွင်း မြေဩဇာလည်း ထက်သန်ကောင်းမွန်သဖြင့် မြေနိမ့်ပိုင်း၌ မြေပြန့်စပါး၊ တောင်ကုန်းဒေသများ၌ တောင်ယာစပါး စိုက်ပျိုးခြင်းကို ယခုအခါ အဓိကအားဖြင့် လုပ်ကိုင်ကြသည်။ မြစ်ရိုး ချောင်းရိုးများ၌ ရွှေကျင်သည့် လုပ်ငန်းကိုလည်း လုပ်ကိုင်ကြသည်ကို တွေ့ရသည်။

ဟူးကောင်းတောင်ကြားတွင် ယခုအခါ ရွာကြီးရွာငယ်များ အတော်များများ ရှိနေပေပြီ။ နေထိုင်ကြသော တိုင်းရင်းသား အများစုသည် ကချင်လူမျိုးများ ဖြစ်သည်။ ရှမ်းအဆက်အနွယ်၊ အာသံလူမျိုး အဆက်အနွယ်များလည်း နေထိုင်လျက် ရှိကြသည်။ ရှေးအခါကမူ ရှမ်းလူမျိုးများ ကြီးစိုးလွှမ်းမိုးခဲ့လေသည်။ ခရစ် ရှစ်ရာစု၊ ကိုးရာစုနှစ်များအတွင်း နန်ချောင်ပြည် တန်ခိုးထွားခဲ့စဉ်က အိန္ဒိယနှင့်၎င်း၊ မြန်မာနိုင်ငံအလယ်ပိုင်း၌ စိုးစံသော ပျူမင်းများနှင့်၎င်း ဆက်သွယ်ရန် ကုန်သွယ်လမ်းမကြီးများ ဖောက်လုပ်ခဲ့ရာ၊ နန်ချောင်၏ ပဒေသရာဇ်နယ်တနယ်ဖြစ်သော မိုးကောင်းနှင့် အိမ်နီးချင်း တိုင်းပြည်တပြည်ဖြစ်သော အာသံကို ဆက်သွယ်သောလမ်းကြောင်းသည် ဟူးကောင်းချိုင့်ဝှမ်းကို ဖြတ်သန်းသွား၍ ဟူးကောင်းတောင်ကြားလမ်းသည် တံခါးပေါက် ဖြစ်ပေသည်။ ထိုလမ်းကြောင်းတလျှောက် အစောင့်အရှောက် တပ်စခန်းများ ဖွင့်ထားခဲ့ရာ၊ ရှမ်းလူမျိုးများသည် ထိုစခန်းများ၌ လာရောက် အခြေစိုက် နေထိုင်ခဲ့ကြသည်။ အာသံ၌ ခရစ် ၁၃ ရာစုနှစ်မှ ၁၈ ရာစုနှစ်အထိ စိုးမိုးခဲ့သော အဟုမ်း (ရှမ်း) မင်းဆက်တို့သည် မြန်မာနိုင်ငံမှ အခြားရှမ်းစော်ဘွားများနှင့်လည်း အဆက်အဆံရှိခဲ့ရာ၊ ယင်းသည့်ခေတ်၌လည်း ဟူးကောင်းချိုင့်ဝှမ်းကို ဖြတ်သန်းသွားရသော မိုးကောင်း – အာသံလမ်းကြောင်းကို အသုံးပြုခဲ့လေသည်။ ထိုအခါက ဟူးကောင်းချိုင့်ဝှမ်းသည် မိုးကောင်းစော်ဘွား၏ ပိုင်နက်တွင် ပါဝင်ခဲ့လေသည်။

ထိုခေတ်များအတွင်း အကြောင်းအမျိုးမျိုးဖြင့် ကချင်များသည် ဟူးကောင်းဒေသသို့ တဖြည်းဖြည်း ရောက်ရှိလာကြသည်။ နယ်မြေချင်း ဆက်စပ်နေသည့် အာသံမှ အာသံလူမျိုးများလည်း ဟူးကောင်းချိုင့်ဝှမ်းသို့ ဝင်ရောက်နေထိုင်ခဲ့ကြ၍ ကချင်တို့ထံ အမှုထမ်းခဲ့ကြသည်။ ရှမ်းစော်ဘွားများသည် မြန်မာမင်းများ၏ သစ္စာတော်ခံများ ဖြစ်လာကြ၍ နောက်ပိုင်းကျသော မြန်မာမင်းများလက်ထက်တွင် မိုးကောင်းကို မြန်မာဘုရင်ခံ တဦးက အုပ်ချုပ်ခဲ့လေသည်။ ထိုအခါ ဟူးကောင်းတောင်ကြားသည်လည်း မြန်မာဘုရင်ခံ၏ အအုပ်အချုပ်ခံ ဒေသတခု ဖြစ်ခဲ့လေသည်။ ခရစ် ၁၈၂၄ ခုနှစ်တွင် မြန်မာနှင့် ဗြိတိသျှတို့ အာသံ၌ အချင်းဖြစ်ပွားခဲ့ပြီးသည့်နောက်တွင် ဟူးကောင်းတောင်ကြားလမ်းကို ပိတ်ထားခဲ့သဖြင့် အာသံနှင့်မြန်မာ အကူးအသန်းရပ်ခဲ့သည်။ ထိုအခါ ဟူးကောင်းလမ်းကြောင်းကို လူသုံးနည်းသွားလေသည်။ ရှမ်းတို့သည်လည်း တန်ခိုးအာဏာ မှေးမှိန်နေကြသဖြင့် ဟူးကောင်းချိုင့်ဝှမ်းတွင် ကချင်တို့က ကြီးစိုး လွှမ်းမိုးလာသည်။ ရှမ်းတို့သည် ဟူးကောင်းချိုင့်ဝှမ်းမှ တဖြည်းဖြည်းထွက်ခွာသွားကြ၍ ရှမ်းဦးရေ လျော့ပါးလာသည်။ ဗြိတိသျှတို့သည် အထက်မြန်မာနိုင်ငံကို သိမ်းပိုက်ပြီးနောက် ၁၈၉၀ ခုနှစ်တွင် ဟူးကောင်းတောင်ကြားကို သိမ်းပိုက်ရန် စစ်တပ်တတပ် စေလွှတ်ခဲ့သည်။ ထိုအချိန်တွင် ဟူးကောင်းတောင်ကြား၌ ကချင်တို့သည် လူများစုဖြစ်နေပြီးလျှင် အေးချမ်းစွာ နေထိုင်လျက် ရှိကြောင်း တွေ့ရသည်။ မိုးကောင်း – အာသံ ကုန်သွယ်လမ်းကြောင်းသည်လည်း စခန်းမြုပ်နေခဲ့လေသည်။ ဗြိတိသျှတို့သည် ဟူးကောင်းတောင်ကြားကို သိမ်းပိုက်ခဲ့သော်လည်း ယင်းဒေသကို လျော့လျော့လျည်းလျည်းသာလျှင် အုပ်ချုပ်ခဲ့လေသည်။

ဗြိတိသျှတို့အုပ်ချုပ်စခေတ်က ဟူးကောင်းတောင်ကြားသည် ပယင်း၊ ဆား၊ ညောင်ကြက်ပေါင်တို့အထွက်ကောင်းသဖြင့်ထင်ရှားခဲ့သော်လည်းထိုထွက်ကုန်များတဖြည်းဖြည်းအထွက်နည်းလာသဖြင့် ဟူးကောင်းတောင်ကြား၏ အမည်သည်လည်းမေ့မေ့ပျောက်ပျောက် ဖြစ်နေခဲ့လေသည်။

ဒုတိယကမ္ဘာစစ်အတွင်းကမူ ဟူးကောင်းတောင်ကြား၏အမည်သည် ပေါ်ထွက်လာပြန်သည်။ တရုပ်–မြန်မာလမ်းမကြီး၏ တောင်ပိုင်းကို ဂျပန်များက သိမ်းပိုက်လိုက်သောအခါ မဟာမိတ် တပ်များသည် တရုပ်နိုင်ငံသို့

လက်နက် ခဲယမ်းမီးကျောက်များ တင်ပို့ရေးအတွက် လီဒိုလမ်းမကြီးကို ရန်သူတပ်များနှင့် တိုက်ယင်းခိုက်ယင်း ဖောက်လုပ်ခဲ့ရသည်။ ထိုလမ်းမကြီး၏ တစိတ်တဒေသဖြစ်သော မြစ်ကြီးနားနှင့် လီဒိုမြို့ (အာသံ) ကို ဆက်သွယ်သော အစိတ်အပိုင်းသည် ရှေးမိုးကောင်း—အာသံလမ်းကြောင်းကဲ့သို့ ဟူးကောင်းချိုင့်ဝှမ်းကို ဖြတ်သန်းသွားပြီးလျှင် ဟူးကောင်းတောင်ကြားလမ်းသည် အရေးပါသော ဝင်ပေါက်ထွက်ပေါက်ဖြစ်ပေသည်။ ထို့ပြင် မဟာမိတ်တပ်များက မြန်မာပြည်ကိုပြန်လည်သိမ်းပိုက်ရန်အာသံပြည်၌ အခြေခံ စစ်စခန်းကြီးတခုဖွင့်၍ စစ်ဆင်သောအခါ ဟူးကောင်းချိုင့်ဝှမ်းသည်လည်း စစ်မျက်နှာတရပ် ဖြစ်ခဲ့သည်။ ထို့ကြောင့် ဟူးကောင်းချိုင့်ဝှမ်းတွင် မဟာမိတ်တပ်များနှင့် ဂျပန်တပ်များ၏ ပြင်းထန်သော တိုက်ပွဲများလည်း ဖြစ်ပွားခဲ့လေသည်။ (လီဒိုလမ်းလည်း — ရှု။)

ဒုတိယကမ္ဘာစစ်ကြီး ပြီးဆုံးသွား၍ မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးနောက်တွင် ပြည်ထောင်စု မြန်မာနိုင်ငံ အစိုးရနှင့် တရုပ်ပြည်သူ့ သမတနိုင်ငံ အစိုးရ တို့သည် နှစ်ပြည်ထောင် ထာဝစဉ်ချစ်ကြည်ရေးကို ရှေးရှုလျက် နယ်နိမိတ်သစ်များ ပြန်လည်သတ်မှတ်ခဲ့သည်။ (မြန်မာတရုပ် နယ်ခြား သတ်မှတ်ရေး — လည်းရှု။) ယင်းသို့ သတ်မှတ်ရာတွင် တရုပ်အစိုးရသို့ ပေးအပ်လိုက်ရသော ဖီမော်၊ ဂေါ်လန်၊ ကန်ဖန် ဒေသမှ ပြည်ထောင်စုသား အချို့အိမ်ထောင်စုများကို ဟူးကောင်းတောင်ကြားဒေသသို့ ရွှေ့ပြောင်းပေးရသည်။ ထိုအိမ်ထောင်စုတို့သည် မိမိတို့ဇာတိဒေသများကို စွန့်ခွာပြောင်းရွှေ့ရပါက မိမိတို့လုပ်ကိုင်စားသောက် နေထိုင်ရေးအတွက် အဆင်ပြေမည့် ကချင်ပြည်နယ် ဟူးကောင်းဒေသသို့သာ ပြောင်းရွှေ့လိုကြောင်း ရွေးချယ်တင်ပြကြသဖြင့် ပြည်ထောင်စုအစိုးရက ထိုပြည်ထောင်စုသားများ စိတ်တိုင်းကျ ဖြစ်စေရန် မြစ်ကြီးနားခရိုင်၊ မြစ်ကြီးနားမြို့မှ ၁၁၄ မိုင်အကွာ၊ ဟူးကောင်းတောင်ကြားဒေသ လီဒိုလမ်းမပေါ်၌ ရွာကြီးတရွာ ထူထောင်ပေးပြီးလျှင်၊ ထိုရွာကြီးကို ၁၉၆၁ ခုနှစ် ဇွန်လ ၉ ရက်နေ့တွင် ဖွင့်လှစ်ပေးခဲ့သည်။ ထိုရွာကြီး၌ နေထိုင်ကြမည့် ၉၇ အိမ်ထောင်စုအတွက် တအိမ်ထောင်လျှင် အိမ်တလုံးကျ တည်ဆောက်ပေးပြီးလျှင် ဘုရားရှိခိုးကျောင်း၊ စာသင်ကျောင်း၊ ဆေးပေးရုံ၊ ဈေးရုံ၊ ဘောလုံးကွင်း စသည်တို့ဖြင့် သိုက်သိုက်မြိုက်မြိုက် ရှိစေသည်။ ရွာ၏ အမည်မှာ ထိုစဉ်က တရုပ်—မြန်မာနယ်ခြားဒေသ ကျေးရွာများ ပြန်လည်နေရာချထားပေးရေး ကော်မီတီဥက္ကဋ္ဌလည်းဖြစ်၍ ရေကြောင်းနှင့်မြို့ပြလေကြောင်းဌာန ဝန်ကြီးလည်း ဖြစ်သော ဗိုလ်မှူးအောင်၏ အမည်ဖြင့် ဗိုလ်မှူးအောင် စံပြရွာဟု အမည်တွင်စေခဲ့လေသည်။

ဟူးရား။ • ။သမားတော် — ရှု။

**ဟေးစတင်း, ဝေါရန်း (ခရစ် ၁၇၃၂ – ၁၈၁၈) ။ ။** ဝေါရန်း ဟေးစတင်းသည် အိန္ဒိယနိုင်ငံတွင် ပဌမဦးဆုံး ဘုရင်ခံချုပ်အဖြစ် အုပ်ချုပ်ခဲ့သော ဗြိတိသျှ နိုင်ငံပြုသုခမိန်ဖြစ်သည်။ ရောဗတ် ကလိုက်သည် အိန္ဒိယနိုင်ငံတွင် ဗြိတိသျှတို့ လွှမ်းမိုးနိုင်ရန် စတင် အခြေစိုက်ပေးခဲ့သူဖြစ်၍ ဝေါရန်းဟေးစတင်းသည် ဗြိတိသျှတို့၏ အာဏာစက်တည်တံ့ခိုင်မြဲရေးကို စွမ်းစွမ်းတမံ ဆောင်ရွက်ခဲ့သူ ဖြစ်သည်။ (ကလိုက်,အာ — လည်းရှု။)

ဟေးစတင်းသည် ၁၇၃၂ ခုနှစ်၊ ဒီဇင်ဘာလ ၆ ရက်နေ့တွင် အောက်စဖို့ရှိုင်ယာနယ် ချာချီမြို့၌ ဖွားမြင်၍ ငယ်စဉ်ကတည်းက မိဖနှစ်ပါး ကွယ်လွန်ခဲ့သဖြင့် ဦးလေးတယောက်၏လက်တွင် ကြီးပြင်းလာခဲ့ရသည်။ အသက် ၁၈ နှစ်အရွယ်တွင် အရှေ့အိန္ဒိယကုမ္ပဏီ၌ စာရေးအလုပ်ကို ရသဖြင့် အိန္ဒိယနိုင်ငံ ဗင်္ဂလားပြည်နယ်သို့ ရောက်ရှိသည်။ ၁၇၅၆ ခုနှစ်တွင် ဗင်္ဂလားပြည်နယ် စော်ဘွားစူရားဂျူတ်ဒေါင်လာသည် ကာလကတ္တားမြို့ကို တိုက်ခိုက်သိမ်းပိုက်ခဲ့ရာ ရောဗတ် ကလိုက် ဦးစီးသည့် စစ်တပ်သည် စော်ဘွားကို နှိမ်နင်းရန် ချီတက်လာလေသည်။ ထိုအခါ ဟေးစတင်းလည်း ကလိုက်၏တပ်ဖွဲ့တွင် ဝင်ရောက် အမှုထမ်းသည်။

ကလိုက်သည် ဟေးစတင်း၏ စွမ်းရည်သတ္တိကို မြင်



ဝေါရန်း ဟေးစတင်း

သဖြင့် မူရှိဒဗတ်မြို့တွင် အရှေ့အိန္ဒိယကုမ္ပဏီ၏ ကိုယ်စားလှယ်အဖြစ် ခန့်သည်။ ထိုရာထူးတွင် သုံးနှစ်မျှ အမှုထမ်းပြီးနောက် ၁၇၆၁ ခုနှစ်၌ ဗင်္ဂလားပြည်နယ် ကောင်စီအဖွဲ့ဝင်အဖြစ် ခန့်ထားခြင်း ခံရ၍ ကာလကတ္တားမြို့သို့ ပြောင်းရွှေ့နေထိုင်သည်။ ၁၇၆၄ ခုနှစ်တွင် အခြားသော ကောင်စီအဖွဲ့ဝင်တို့နှင့် သဘောချင်း မတိုက်ဆိုင်သဖြင့် ရာထူးမှ နုတ်ထွက်ပြီးလျှင် အင်္ဂလန်နိုင်ငံသို့ ပြန်သွားခဲ့လေသည်။

တဖန် ၁၇၆၈ ခုနှစ်တွင် ဟေးစတင်းသည် မဒရပ်ပြည်နယ် ကောင်စီအဖွဲ့ဝင်အဖြစ် အမှုထမ်းရန် အိန္ဒိယနိုင်ငံသို့ ပြန်ရောက်လာသည်။ ထိုအချိန်တွင် ရောဗတ် ကလိုက်သည် ဗင်္ဂလားပြည်နယ် ဘုရင်ခံ ရာထူးမှ အနားယူ၍ အင်္ဂလန်နိုင်ငံသို့ ပြန်ရောက်သွားပြီ ဖြစ်သည်။ အိန္ဒိယနိုင်ငံတွင်လည်း အလွန်ဆိုးရွားသော အစာငတ်မွတ် ခေါင်းပါးခြင်းဘေးနှင့် တွေ့ကြုံခဲ့ရသည်။ ထိုနောက် ၁၇၇၂ ခုနှစ်တွင် ဟေးစတင်းသည် ဗင်္ဂလားပြည်နယ် ဘုရင်ခံအဖြစ် ခန့်အပ်ခြင်း ခံရ၍ ၁၇၇၃ ခုနှစ် စီမံအုပ်ချုပ်ရေးအက်ဥပဒေအရ ၁၇၇၄ ခုနှစ်မှစ၍ ဘုရင်ခံချုပ်ရာထူး၌ စတင် အမှုထမ်းရသည်။ ဘုရင်ခံချုပ်ရာထူးသည် စင်စစ်အားဖြင့် ဗင်္ဂလားပြည်နယ် ဘုရင်ခံရာထူးကို နာမည်ပြောင်းခေါ်ခြင်းဖြစ်၍ ဘုရင်ခံချုပ်သည် အခြားအင်္ဂလိပ်ပိုင် ဘုံဘိုင်ပြည်နယ်နှင့် မဒရပ်ပြည်နယ် အုပ်ချုပ်ရေးတွင် အနည်းအကျဉ်းလောက်သာ စွက်ဖက်နိုင်သည်။

အစဦးတွင် အရှေ့အိန္ဒိယကုမ္ပဏီသည် ကုန်သွယ်ရေးအဖွဲ့အစည်းသက်သက်မျှသာ ဖြစ်သော်လည်း ဟေးစတင်းလက်ထက်သို့ ရောက်သောအခါ အခွန်ကောက်ခြင်း၊ ကိုယ်ပိုင်စစ်တပ်ထားရှိခြင်း စသည်ဖြင့် နယ်ပယ်အုပ်ချုပ်မှုကိုလည်း တာဝန်ယူ ဆောင်ရွက်လေသည်။ ထိုသို့အားဖြင့် တိုင်းရင်းသား စော်ဘွားတို့တွင် တန်ခိုးအာဏာချည့်နဲ့လာလေသည်။ အကယ်၍ စော်ဘွားတဦးက စစ်တပ်အကူအညီလိုလျှင် အခကြေးငွေယူ၍ ထိုစော်ဘွားဖက်မှ ကူညီတိုက်ခိုက်ပေးသည်။ ကုမ္ပဏီပိုင် နယ်မြေကို ထိပါးကျူးကျော်လာလျှင်လည်း စစ်တပ်ဖြင့် တိုက်ခိုက်နှိမ်နင်းရလေသည်။ ထိုကြောင့် အိန္ဒိယနိုင်ငံတွင် ဗြိတိသျှတို့၏ အာဏာစက်သည် ကျယ်ပြန့်လာလေသည်။

ဗင်္ဂလားပြည်နယ် အုပ်ချုပ်ရေးကောင်စီတွင် အဖွဲ့ဝင်ငါးဦးရှိသည့်အနက် ဆာ ဖိလစ် ဖရန်းစစ် ခေါင်းဆောင်သော အဖွဲ့ဝင် သုံးဦးတို့သည် ဘုရင်ခံချုပ်နှင့် အစဉ်သဖြင့် အတိုက်အခံ ပြုခဲ့ကြသည်။ သို့ရာတွင် ဟေးစတင်းသည် ဗင်္ဂလားပြည်နယ် အုပ်ချုပ်ရေးဖက်၌၎င်း၊ အရှေ့အိန္ဒိယကုမ္ပဏီ၏ အကျိုးကို ဆောင်ရွက်ရာ၌၎င်း ဉာဏ်အမြော်အမြင်ကျယ်စွာ အမှုထမ်းခဲ့သူဖြစ်ပေသည်။

ထိုအချိန်တွင် ပြင်သစ်တို့သည် အိန္ဒိယနိုင်ငံ တောင်ပိုင်း၌ တိုင်းရင်းသား စော်ဘွားတို့နှင့် ပူးပေါင်း၍ ဗြိတိသျှတို့၏ အာဏာကို ဖီဆန် တိုက်ဖျက်လျက် ရှိကြသည်။ အထူးသဖြင့် မဒရပ်ပြည်နယ်ဖက်တွင် စော်ဘွား ဟိုင်ဒါအလီ ခေါင်းဆောင်သော စစ်တပ်သည် အင်္ဂလိပ်စစ်တပ်များကို ပြင်းထန်စွာ တိုက်ခိုက်လျက်ရှိသည်။ သို့ဖြစ်၍ ဟေးစတင်းသည် ရန်သူတပ်ကို နှိမ်နင်းရန် စစ်စရိတ်မလုံလောက်သဖြင့် တိုင်းရင်းသား စော်ဘွားများ ဖြစ်ကြသော ဗာရာဏသီ စော်ဘွားနှင့် ဥဒနယ်စော်ဘွား နှစ်ဦးတို့ထံမှ ကာကွယ်ပေးခငွေကို အတင်းအကြပ် တောင်းယူသည်။ ထိုငွေဖြင့် ဟိုင်ဒါအလီတို့ကို အောင်မြင်စွာ တိုက်ခိုက် နှိမ်နင်းနိုင်ခဲ့သည်။

၁၇၈၅ ခုနှစ်တွင် ဟေးစတင်းသည် ဘုရင်ခံ ချုပ်ရာထူးမှ နုတ်ထွက်ပြီးလျှင် အင်္ဂလန်နိုင်ငံသို့ ပြန်ခဲ့သည်။ အိန္ဒိယနိုင်ငံတွင် ဟေးစတင်း လုပ်ကိုင် ဆောင်ရွက်ခဲ့ပုံနှင့် စပ်လျဉ်း၍ မကျေနပ်သူများရှိကြရာ ပါလီမန်၌ စွဲချက်တင်၍ သူ့အား စစ်ဆေးရန် စီစဉ်ကြလေသည်။ ထိုကြောင့် အက်ဒမန် ဗတ်၊ ချား ဖောက်နှင့် ရစ်ချတ် ရှယ်ရီဒန်တို့က ခေါင်းဆောင်၍ ဟေးစတင်းအား စုံစမ်းစစ်ဆေးရန် ပါလီမန်သို့ တောင်းဆိုကြသည်။ (ဗတ်၊ အက်ဒမန် — လည်း ရှု။) ပါလီမန်တွင် ဟေးစတင်းအပေါ် စွပ်စွဲပြစ်တင်ပြောဆိုချက်များနှင့်စပ်လျဉ်း၍ စုံစမ်းစစ်ဆေးခဲ့ရာ အမှုမှာ ခုနစ်နှစ်ကြာမှ ပြီးဆုံး၍ ဟေးစတင်းအား အပြစ်မရှိဟု အဆုံးအဖြတ် ချမှတ်ခဲ့လေသည်။ သို့ရာတွင် ဟေးစတင်းသည် မိမိအပေါ်၌ စွပ်စွဲချက်များကို ထိုမျှကြာအောင် ထုချေကာကွယ်ရသည့်အတွက် စည်းစိမ် ဥစ္စာ ပြုန်းတီးကုန်လေသည်။ ထိုကြောင့် ၁၇၉၆ ခုနှစ်မှစ၍ အရှေ့အိန္ဒိယကုမ္ပဏီက သူ့အား နှစ်စဉ် ထောက်ပံ့ကြေးပေး၍ ကူညီခဲ့သည်။ ဝေါရန်း ဟေးစတင်းသည် ၁၈၁၈ ခုနှစ် ဩဂုတ်လ ၂၂ ရက်နေ့တွင် ကွယ်လွန်လေသည်။

**ဟေးစတင်း တိုက်ပွဲ။** ။ဟေးစတင်း တိုက်ပွဲသည် အင်္ဂလန်နိုင်ငံ အုပ်ချုပ်ရေးကို အင်္ဂလိုဆက္ကဆန် ဘုရင်တို့လက်မှ နော်မန်ဘုရင်တို့ လက်သို့ ရောက်ရှိစေခဲ့သော တိုက်ပွဲဖြစ်ခြင်းကြောင့် အင်္ဂလိပ်လူမျိုးတို့၏ သမိုင်းတွင် ထင်ရှားသော တိုက်ပွဲဖြစ်သည်။ ထိုတိုက်ပွဲသည် စင်စစ်အားဖြင့် ဆပ်ဆက်နယ်ကမ်းခြေရှိ ဟေးစတင်းမြို့မှ ခြောက်မိုင်ခန့် အတွင်းကျသော ဆင်းလက်တောင်ကုန်းတွင် ဖြစ်ပွားခဲ့သော်လည်း ထင်ရှားသော မြို့အမည်ကို စွဲ၍ ဟေးစတင်း တိုက်ပွဲဟု ခေါ်တွင်လေသည်။ ထိုအခါက အင်္ဂလန်နိုင်ငံတွင် ဟဲရိုးဘုရင် အုပ်စိုးလျက်ရှိရာ နော်မန်ဒီနယ်စား ဝီလျံက မိမိသာလျှင် ထီးနန်းကို ဆက်ခံထိုက်သည်ဟု



အင်္ဂလန်နိုင်ငံ သမိုင်းတွင် ထင်ရှားသော ဟေးစတင်းတိုက်ပွဲ

ဆို၍ ချီတက်တိုက်ခိုက်သော တိုက်ပွဲဖြစ်သည်။ (ဝီလျံ၊ အင်္ဂလိပ်ဘုရင်များ၊ ဟဲရိုးဘုရင် — လည်းရှု။)

၁၀၆၆ ခုနှစ် အောက်တိုဘာလ ၁၄ ရက်နံနက်အရုဏ်တက် အချိန်တွင် ဆပ်ဆက်ကမ်းခြေ ပီဗင်ဆီ ပင်လယ်အော်၌ တပ်စွဲလျက်ရှိသော ဝီလျံ၏ တပ်သားတို့သည် အင်္ဂလိပ်တို့ တပ်စခန်းချရာ ဆင်းလက်တောင်ကုန်းသို့ စစ်ချီ တိုက်ခိုက်လေသည်။ နှစ်ဖက်သော စစ်သည်တို့တွင် လူဦးရေချင်း မကွာခြားလှချေ။ အင်္ဂလိပ်တို့ဖက်မှ လှံတံနှင့် အရိုးရှည် ပုဆိန်များကို စွဲကိုင်၍ ထိုးစစ် ဆင်လာသော နော်မန် မြင်းစီးတပ်သားတို့ကို အကြိမ်ကြိမ် တွန်းလှန်နိုင်ခဲ့သည်။ ရန်သူဖက်မှ ပစ်ခတ်သော မြားတို့ကိုလည်း ဒိုင်းလွှားတို့ဖြင့် ခုခံ ကာကွယ်လျက်ရှိသည်။

ညနေချမ်းအချိန်သို့ ရောက်သောအခါ ဟဲရိုးဘုရင်သည်မျက်လုံးတဖက်တွင် ရန်သူ့မြားချက်သင့်သဖြင့် ကျဆုံးလေသည်။ ဘုရင်၏ညီတော် နှစ်ဦးနှင့်တကွ လက်ရွေးစင်တပ်ဖွဲ့သည်လည်း ကျဆုံးကုန်ပြီ ဖြစ်သောကြောင့်အင်္ဂလိပ်တို့၏တပ် ပျက်၍ နော်မန်တို့ အောင်ပွဲ ရကြလေသည်။

ထိုနောက် နော်မန်ဒီနယ်စားသည် ပဌမ ဝီလျံဘုရင်ဘွဲ့ကို ခံယူ၍ အင်္ဂလန်နိုင်ငံကို အုပ်စိုးခဲ့လေသည်။

**ဟေးတီးသမတနိုင်ငံ။** ။ဟေးတီး သမတ နိုင်ငံသည် အနောက်အိန္ဒိယကျွန်းစုတွင် အပါအဝင်ဖြစ်သော ဟစ္စပါညိုလာကျွန်း အနောက်ပိုင်းရှိ နိုင်ငံဖြစ်သည်။ ကျွန်း၏ အရှေ့ပိုင်းတွင် ဒိုမီနီကန်သမတနိုင်ငံ တည်ရှိသည်။ ဟေးတီးနိုင်ငံသည် ၁၀,၇၁၄ စတုရန်းမိုင် ကျယ်ဝန်း၍ ကျွန်း၏ သုံးပုံတပုံမျှသာ ရှိသော်လည်း လူဦးရေအားဖြင့် ဒိုမီနီကန်နိုင်ငံထက် သုံးဆပိုများသည်။ ဟေးတီးဟူသော အမည်သည် တိုင်းရင်းသား အင်ဒီးယန်းလူမျိုးတို့၏ စကားဖြင့် ကုန်းမြင့်ဟု အဓိပ္ပါယ်ပေါက်သော အမည်ဖြစ်သည်။ နိုင်ငံ၏ ငါးပုံလေးပုံသည် တောတောင်တို့ဖြင့် ဖုံးအုပ်လျက်ရှိသည်။

ဟေးတီးသမတနိုင်ငံတွင် တောင်တန်း သုံးသွယ်တို့သည် အရှေ့နှင့် အနောက် ဖြတ်သန်းတည်ရှိ၍ ထိုတောင်တန်းများအကြား၌ မြေသြဇာထက်သန်သော ချိုင့်ဝှမ်းများရှိသည်။ အာတီဗိုနိုက် မြစ်သည် အထင်ရှားဆုံး မြစ်ဖြစ်၍ အနောက်ဖက်ရှိ ဂေါနေအိဗ ပင်လယ်ကွေ့ထဲသို့ စီးဝင်သည်။

ဟေးတီးနိုင်ငံသည် အီကွေတာနှင့် နီးသဖြင့် တနှစ်ပတ်လုံး ပူနွေးသော ရာသီဥတုရှိသည်။ တောင်ကုန်းဒေသ

များ၌ မိုးကောင်း၍ အတွင်းဖက်ကျသော ချိုင့်ဝှမ်းဒေသများ၌မူ မိုးအလွန်ပါးသည်။ ဟေးတီးနိုင်ငံသည် စိုက်ပျိုးလုပ်ကိုင်ရန်အတွက် မြေဩဇာထက်သန်၍ သဘာဝပစ္စည်းများ ကြွယ်ဝသော နိုင်ငံဖြစ်သည်။ စိုက်ပျိုးရေးသည် အဓိကလုပ်ငန်းဖြစ်၍ ကာဖီကို အများဆုံး စိုက်ပျိုးသည်။ ကြံ၊ ဝါဂွမ်း၊ ငှက်ပျော၊ ကကေးအို၊ ဆေးပင်နှင့် သဘော်၊ နာနတ်ပင်များကိုလည်း စိုက်ပျိုးသည်။ သစ်တောများမှ မဟောဂနီ၊ ဆီဒါ စသော အဖိုးတန် သစ်များ ရရှိသည်။ သံ၊ ငွေ၊ ရွှေ၊ ကြေးနီ၊ ပလက်တီနမ်၊ ခဲမဖြူ၊ ကန့်၊ ကျောက်မီးသွေး၊ နစ်ကယ်၊ ဂျစ်ပဆမ် စသော တွင်းထွက်ပစ္စည်းများဖြင့် ကြွယ်ဝသော နိုင်ငံလည်း ဖြစ်သည်။ သို့ရာတွင် ဟေးတီးနိုင်ငံ၌ သတ္တုတူးဖော်ခြင်း လုပ်ငန်းမှာ များစွာ မထွန်းကားသေးချေ။ ထင်ရှားသောစက်မှုလုပ်ငန်းများမှာ သကြားချက်လုပ်ငန်း၊ ခြည်ထည်ရက် လုပ်ငန်းနှင့် ရမ်အရက်ချက် လုပ်ငန်းတို့ ဖြစ်သည်။

ဟေးတီးနိုင်ငံတွင် လူဦးရေ ၄,၇၆၇,၀၀၀(၁၉၆၉)ခန့်ရှိသည့်အနက် ၉၀ ရာခိုင်နှုန်းမှာ နီးဂရိုး လူမျိုးများဖြစ်သည်။ ကျန်လူမျိုးတို့သည် များသောအားဖြင့် နီးဂရိုးနှင့် ပြင်သစ်ကပြားများ ဖြစ်ကြသည်။ ပြင်သစ်ဘာသာသည် ရုံးသုံးဘာသာဖြစ်သော်လည်း တိုင်းရင်းသား အင်ဒီးယန်းဘာသာ၊ ပြင်သစ်ဘာသာနှင့် စပိန်ဘာသာတို့ ပေါင်းစပ်ထားသော သုံးဦးစပ်ဘာသာစကားကို လူအများက သုံးစွဲပြောဆိုကြသည်။ ၁၈၆၀ ပြည့်နှစ်မှစ၍ ရောမကက်သလစ် အယူဝါဒကို နိုင်ငံတော် အယူဝါဒအဖြစ် ပြဋ္ဌာန်းခဲ့သည်။ သို့ရာတွင် လွတ်လပ်စွာ ကိုးကွယ်မှုကိုလည်း ခွင့်ပြုသည်။ ဟေးတီးနိုင်ငံသားတို့သည် များသောအားဖြင့် ရောမကက်သလစ်ဂိုဏ်းဝင်များဖြစ်ကြသည်။ အခမဲ့ မူလတန်းပညာကို မသင်မနေရအဖြစ် ပြဋ္ဌာန်းထားသည်။ ၁၉၂၂ ခုနှစ်တွင် ပို့–အို–ပရင့်စ မြို့တော်၌ အမျိုးသား တက္ကသိုလ်ကို တည်ထောင်ခဲ့သည်။

အနောက်ဖက်ကမ်းတွင် တည်ရှိသော ပို့–အို–ပရင့်စ မြို့တော်သည် ဟေးတီး နိုင်ငံ၏ ဆိပ်ကမ်းမြို့ကြီးလည်း ဖြစ်သည်။ နိုင်ငံတွင်း လမ်းပန်းဆက်သွယ်ရေး မတိုးတက်သေးချေ။ ပြည်တွင်း ပြည်ပဆက်သွယ်ရေးအတွက် လေကြောင်းခရီးကိုသာ အားကိုးရသည်။

ခရစ္စတိုဖာ ကိုလံဗပ်သည် ၁၄၉၂ ခုနှစ်တွင် ဟစ္စပါညိုလာကျွန်းကို စတင်တွေ့ရှိပြီးနောက် စပိန်ပိုင် ကိုလိုနီနယ်အဖြစ် သိမ်းပိုက်ခဲ့သည်။ ထိုနောက် ၁၆၇၇ ခုနှစ်မှ ၁၇၀၁ ခုနှစ်အထိ ကျွန်း၏အနောက်ပိုင်းသည် ပြင်သစ်တို့လက်အောက်သို့ ကျရောက်ခဲ့သည်။ သို့ရာတွင် ၁၇၉၁ ခုနှစ်၌ အာဖရိကတိုက်မှ ကျွန်အဖြစ် စေခိုင်းရန် ယူဆောင်ခဲ့သော နီဂရိုးလူမျိုးတို့သည် ပြင်သစ်တို့ကို တော်လှန်ပုန်ကန်ပြီးလျှင် သီးခြားနိုင်ငံအဖြစ် တည်ထောင်ကြလေသည်။ ၁၈၂၀ ပြည့်နှစ်တွင် ဟေးတီးသမတနိုင်ငံဟူ၍ ကျေညာပြီးနောက် ပြည်တွင်း ဆူပူ သောင်းကျန်းမှုများ ဖြစ်ပွားခဲ့ရာ ၁၉၁၅ ခုနှစ်မှ ၁၉၃၄ ခုနှစ်အထိ အမေရိကန်အစိုးရက ထိုနိုင်ငံကို ထိန်းသိမ်းစောင့်ရှောက်ခဲ့ရလေသည်။

၁၉၄၅ ခုနှစ်တွင် ဟေးတီးနိုင်ငံသည် ကုလသမဂ္ဂအဖွဲ့ဝင် နိုင်ငံအဖြစ် ပါဝင်ခဲ့ပြီးလျှင် ၁၉၅၀ ပြည့်နှစ်၌ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေသစ်တရပ်ကို ပြဋ္ဌာန်းလက်ခံခဲ့သည်။ နိုင်ငံ၏ အကြီးအကဲဖြစ်သော သမတကို လူထုမဲဆန္ဒဖြင့် ရွေးကောက် တင်မြှောက်၍ ယင်းသက်တမ်းမှာ ခြောက်နှစ်ဖြစ်သည်။ ဥပဒေပြုအာဏာနှင့် အခြေခံဥပဒေပြင်ဆင်မှု အာဏာတို့သည် အမျိုးသား လွှတ်တော်၌ တည်ရှိ၏။ အမျိုးသား လွှတ်တော်တွင် ကိုယ်စားလှယ် ၂၁ ဦးပါဝင်သော ဆီနိတ်လွှတ်တော်နှင့် ကိုယ်စားလှယ် ၃၇ ဦးတို့ပါဝင်သော ပြည်သူ့လွှတ်တော်တို့ ပါဝင်သည်။ ဆီနိတ် လွှတ်တော် ကိုယ်စားလှယ်များကို ခြောက်နှစ်တကြိမ်၊ ပြည်သူ့လွှတ်တော် ကိုယ်စားလှယ်များကို လေးနှစ်တကြိမ် အသီးအသီး ရွေးကောက် တင်မြှောက်ကြလေသည်။



ဟေးတီး သမတနိုင်ငံမှ လူမျိုးစုတစု ကဟန်

**ဟယ်ရိုအင်။** ။ဟယ်ရိုအင်သည် မော်ဖင်းမှ ထုတ်ယူရရှိအပ်သော ဆေးဝင်ပစ္စည်း ဖြစ်သည်။ ဓာတုဝေါဟာရအားဖြင့် ဒိုင်အက်ဆက်တီ မော်ဖင်း ဟု ခေါ်၍ ဓာတုသင်္ကေတမှာ $C_{21}H_{23}No_5$ Hcl $HO_2$ ဖြစ်သည်။

မော်ဖင်းကို ဘိန်းမှထုတ်ယူရရှိသည် ဖြစ်သဖြင့် ဟယ်ရိုအင်သည်လည်း မူးယစ်စေတတ်သော ဘိန်းတမျိုးပင်ဖြစ်သည်။ အရောင်အဆင်းအားဖြင့် ဖြူသောကြောင့် ဟယ်ရိုအင်ကို ဘိန်းဖြူဟူ၍ လည်းကောင်း၊ ဆေးဖြူမှုန့် ဟူ၍ လည်းကောင်း လူအသိများသည်။

ဟယ်ရိုအင်သည် မော်ဖင်းနှင့် အကျိုးပေးပုံချင်း ဆင်တူသဖြင့် ဆေးဖက်တွင် မော်ဖင်းကို အသုံးပြုသည့်အတိုင်း ဟယ်ရိုအင်ကိုလည်း အသုံးချလေ့ရှိသည်။ သို့သော်အကျိုးအာနိသင် အရာ၌မူ ဟယ်ရိုအင်သည် မော်ဖင်းနှင့် ဘိန်းတို့ထက် အဆပေါင်း များစွာ ထက်မြက်သည်။ ပိုမို၍ အဆိပ်ပြင်းထန်သည်။ ပိုမိုလွန်ကဲစွာပင် အလေ့အကျင့်အထုံစွဲမြန်ဆန်စေသည်။ဟယ်ရိုအင်သည် နာကျင်မှုဝေဒနာကို မငြိမ်းစေတတ်၊ အိပ်ပျော်အောင်လည်း အလျင်အမြန် မဖြစ်စေတတ်၊ မှီဝဲသူအား နှိုးဆွေးခြင်းဖြစ်စေတတ်သည်။

ဟယ်ရိုအင်ကို ဘိန်းစွဲသူများ မှီဝဲလေ့ရှိသည်။ ဟယ်ရိုအင်သည် အခြား မည်သည့် ယစ်မျိုးနှင့်မျှမတူ၊ မှီဝဲသူ၏ စိတ်ကို ပိုမိုလွန်ကဲစွာ ထိခိုက်စေသည်။ မှီဝဲစ၌ ပေါ့ပါး ပျော်ရွှင်လာစေကာ ငါသာလျှင်အဓိက၊ ငါလုပ်လျှင် မည်သည့်အရာမဆို အောင်မြင်ရမည် စသည့် အမြင်အစွဲ အဓိမာန ဝင်လာစေသည်။ ထိုနောက် အရှိကို အရှိအတိုင်း မမြင်နိုင်တော့ပဲ ပုံကြီးချဲ့ ထင်လာမြင်လာ မဆင်မခြင်ပြုလုပ်တတ်သော သတ္တိများ ပေါက်ဖွားလာစေသည်။ ကိုယ်ချင်းစာတရားနှင့် စောင့်ထိန်း လိုက်နာအပ်သော လူမှုကျင့်ဝတ်နှင့် တာဝန်များ မေ့ပျောက်လစ်ဟင်းကာ လူမှုဆန့်ကျင်ဖက် အပြုအမူများ ပြုလုပ်လာစေသည်။ ကာလကြာရှည်သော် ဟယ်ရိုအင် စွဲသူများသည် လူ့အသိုင်းအဝိုင်း ပတ်ဝန်းကျင်မှ ဖဲကြဉ်ကာ ရာဇဝတ်ကောင်များဘဝသို့ ကူးပြောင်းသွားတတ်သည်။

ဟယ်ရိုအင်သည် လူမျိုးအညွန့်တုံးစေသော ယစ်မျိုးဖြစ်သဖြင့် မြန်မာနိုင်ငံနှင့်ဂကမ္ဘာ ကမ္ဘာ့အရပ်ရပ်ရှိ နိုင်ငံများတွင် တရားဝင် ရောင်းဝယ် သုံးစွဲခြင်းကို ပိတ်ပင်တားမြစ်ထားပေသည်။ ထိုပြင် ဟယ်ရိုအင်ကို ထုတ်ယူရရှိရာဖြစ်သော ဘိန်းပင်စိုက်ပျိုးခြင်းကို တားမြစ်ထားသည်။ ပြည်ထောင်စုမြန်မာနိုင်ငံတွင်မူ ဘိန်းပင်အစားဆေးဖက်ဝင်သည့် ဆေးဂန္ဓမာပင်များ စိုက်ပျိုးကြရန် အားပေးကူညီလျက်ရှိသည်။

**ဟယ်လီကော့ပတား။** ။ကော်ဇောပျံ အကြောင်းကို အာရေဗျ ပုံပြင်များကို ဖတ်ဖူးသူတိုင်း သိကြမည်။ ကော်ဇောပျံသည် ပုံပြင်များတွင်သာ ဖြစ်နိုင်သည်။ တကယ်လက်တွေ့တွင်ကား မဖြစ်နိုင်ပေ။ သို့သော် ဟယ်လီကော့ပတားခေါ် ရဟတ်ယာဉ်မှာ ကျွန်ုပ်တို့ ပုံပြင်များထဲမှ ကော်ဇောပျံ စွမ်းဆောင်နိုင်သကဲ့သို့ စွမ်းဆောင်နိုင်သည့် လေယာဉ်တမျိုး ဖြစ်၏။ လေထဲတွင် ရှေ့မတိုး၊ နောက်မဆုတ်၊ အပေါ်မတက်၊ အောက်မဆင်းပဲ တည်ငြိမ်စွာ ရပ်နေနိုင်သည်။ လေယာဉ်ပြေးလမ်းမလိုပဲ လေထဲထောင်တက်နိုင်သည်။ ထိုးဆင်းနိုင်သည်။ လေထဲတွင် ပတ်ချာလှည့်နေနိုင်သည်။

အင်္ဂလိပ်ဘာသာဖြင့် ဟယ်လီကော့ပတား ဟူသောဝေါဟာရကို ရဟတ်ယာဉ်ဟု မြန်မာဘာသာ ပြန်ဆိုထားလေသည်။

ဟယ်လီကော့ပတား ဟူသည်မှာ "ဟယ်လစ်" နှင့် "ပတီရွန်" ဟူသော ဂရိ ဝေါဟာရနှစ်လုံးကို အခြေခံ၍ ပေါ်လာခြင်းဖြစ်၏။ "ဝက်အူနှင့်တူသော အတောင်ပံ" ဟု အဓိပ္ပါယ်ရ၏။

ဟယ်လီကော့ပတားခေါ် ရဟတ်ယာဉ်၏ ပျံသန်းပုံသဘောတရားမှာ သမားရိုးကျ လေယာဉ်ပျံ၏ ပျံသန်းပုံသဘောတရားနှင့် မတူပေ။ (လေယာဉ်ပျံ — လည်းရှု။) သမားရိုးကျ လေယာဉ်ပျံများ လေထဲပျံတက်နိုင်ခြင်းမှာ အတောင်ပံကြောင့်ဖြစ်၏။ အတောင်ပံများ၏ ထူးခြားမှုသဘောကြောင့် ဖြစ်၏။ ရဟတ်ယာဉ်မှာမူ ထိုသို့မဟုတ်ပဲ ယင်း၏ ပန်ကာဒလက်များကြောင့် လေထဲတက်နိုင်ခြင်း ဖြစ်သည်။

ရဟတ်ယာဉ်တွင် အတောင်ပံမရှိပေ။ ရဟတ်ယာဉ်၏ ပန်ကာဒလက်သည် ရဟတ်ယာဉ်ကိုလေထဲတက်နိုင်အောင်သာ လုပ်ပေးသည်မဟုတ်သေး၊ သမားရိုးကျ လေယာဉ်ပျံများ၏ ပန်ကာတာဝန်ကိုလည်း ထမ်းဆောင်၏။ ရဟတ်ယာဉ်ကိုဗယ်ညာတိမ်းနိုင်ယိမ်းနိုင်အောင်လည်း ကြံဆောင်ပေး၏။ ဦးကိုမော့နိုင်စိုက်နိုင်အောင်လည်း ပြုလုပ်ပေး၏။ ရဟတ်ယာဉ်တစီးတွင် ယင်း၏ ပန်ကာ ဒလက်များသည် အရေးအကြီးဆုံး လျှို့ဝှက်နက်နဲမှု အရှိဆုံးဟုပင် အကြမ်းသဘောဆိုနိုင်၏။

**ရဟတ်ယာဉ်ပေါ်လာပုံ**

ရဟတ်ယာဉ် ပျံသန်းပုံ သဘောတရားသည် စင်စစ်အသစ်အဆန်း မဟုတ်ပေ။ ကမ္ဘာကျော် ဇွတာလျံပညာရှင်ကြီး လီယိုနာဒို ဒါ ဗင်ချီသည် လွန်ခဲ့သည့် နှစ်ပေါင်း ၅၀၀ ခန့်ကပင် လေထဲပျံသန်းနိုင်မည့် ယာဉ်တမျိုးဟု ခေါင်းစဉ်တပ်ပြီး ရဟတ်ယာဉ်တစီး၏ပုံကို ပုံကြမ်းရေးဆွဲပြခဲ့ဘူးသည်။ (လီယိုနာဒို ဒါ ဗင်ချီ — လည်းရှု။) တရုပ်နိုင်ငံတွင် ထိုထက်စော၍ပင် ရဟတ်ယာဉ်နှင့် သဘော

တရားစားတူသော လေထဲပျံနိုင်သည့် ကလေးကစားစရာများ ပေါ်ပေါက်ခဲ့ဘူးလေသည်။

လောန္နိုင်နှင့် ဗီယန်ဗီနူးအမည်ရှိ ပြင်သစ်သိပ္ပံပညာရှင် နှစ်ဦးသည် ၁၇၈၄ ခုနှစ်ကပင် ရဟတ်ယာဉ်နှင့်သဘောတရားဆင်ဆင်တူသော လေထဲပျံနိုင်သည့် ယာဉ်တမျိုး၏ ပုံစံကို တည်ဆောက်ခဲ့ဘူး၏။ ဗြိတိသျှသိပ္ပံပညာရှင် ဆာဂျော့ ကေလီသည် ထိုပုံစံများကို ထပ်ဆင့် တီထွင်မှုများ ပြုလုပ်ခြင်းဖြင့် ကျော်ကြားလာခဲ့၏။

၁၇၇၀ ပြည့်နှစ်လွန် နှစ်များတွင် ပြင်သစ်သိပ္ပံပညာရှင် အယ်လဖွန်းစီ ပီးနေ့သည် ရော်ဗာကွင်းများ အသုံးပြု လည်ပတ်စေသော ပန်ကာဒလက်များ တပ်ထားသည့် ရဟတ်ယာဉ်ပုံစံ အမျိုးမျိုးအပြားကို စမ်းသပ်တည်ဆောက်ခဲ့သည်။ သူ၏ပုံစံရဟတ်ယာဉ်လေးအချို့သည် လေထဲသို့ ပေ ၅၀ ခန့် အမြင့်အထိ တက်သွားခဲ့ဘူးသည်ဟု ဆို၏။ ထိုသိပ္ပံပညာရှင်နောက်တွင်လည်း သိပ္ပံပညာရှင် အများအပြားပင် ရဟတ်ယာဉ်ကို တည်ဆောက်ရန် ကြိုးစားခဲ့ကြ၏။ သို့သော် မအောင်မြင်ပဲ ပုံစံရဟတ်ယာဉ်လေးများကို တည်ဆောက်ပြီး အဆုံးသတ်သွားခဲ့ကြလေသည်။

ပဌမဆုံး လူစီးနိုင်သည့် ရဟတ်ယာဉ်ကို ပေါ ကောနူးအမည်ရှိ ပြင်သစ်သိပ္ပံပညာရှင်တဦးက တည်ဆောက်ခဲ့သည်။ ထိုရဟတ်ယာဉ်သည် လူနှစ်ယောက် စီးနိုင်၏။ ၁၉၀၇ ခုနှစ် နိုဝင်ဘာလ ၁၃ ရက်နေ့တွင် ငါးပေအမြင့်ထိ တက်ပြီး တမိနစ်ကြာမျှ ပျံသန်း ပြသခဲ့ဘူးသည်ဟုဆို၏။

ပဌမကမ္ဘာစစ်ကြီး အတွင်းသို့ ရောက်လာသောအခါ၌လည်း သိပ္ပံပညာရှင် အများအပြားပင် ရဟတ်ယာဉ်ကို တည်ဆောက်နိုင်ရန် အမျိုးမျိုး ဆက်လက် ကြိုးပမ်းခဲ့ကြသည်။ လေထဲ အနည်းငယ်စတက်နိုင်သည့် အဆင့်ကိုမူ သိပ္ပံပညာရှင် အများအပြားပင် ကြံဆောင်နိုင်ခဲ့ ကြ၏။ သို့သော် လေထဲတွင် သွားလာ အသုံးပြုနိုင်သည့် ရဟတ်ယာဉ်အဆင့်ကိုမူ မည်သူမျှ ကြံစည်စိတ်ကူးခြင်း မပြုနိုင်ခဲ့ပေ။ ထို့ကြောင့်လည်း ၁၉၃၀ ပြည့်နှစ်လွန် နှစ်များသို့ ဝင်ရောက်လာသောအခါ၌ သိပ္ပံပညာရှင် အများအပြားကပင် ရဟတ်ယာဉ်တည်ဆောက်မည့် သဘောတရားမှာ အလွန်ရှုတ်ထွေး လေးနက်သော သဘောတရား ဖြစ်ပြီးလျှင် ကမ္ဘာပေါ်တွင် လက်တွေ့ မပေါ်ပေါက်နိုင်ဟု ထင်မှတ်စ ပြုလာခဲ့လေသည်။



ငှက်ဖျားရောဂါ ထူပြောသော နေရာများတွင် ပိုးသတ်ဆေးဖျန်းသောလုပ်ငန်းအတွက် ရဟတ်ယာဉ်ကို အသုံးပြုကြသည်။




တန်တားဆောက်လုပ်ရန် သံဘောင်ကြီးတခုကို ရဟတ်ယာဉ်တစင်းက မ ယူနေပုံ

သို့သော် ၁၉၃၇ ခုနှစ်တွင် ဂျာမန် သိပ္ပံပညာရှင် ဟိုင်းနရစ် ဖော့ ဆိုသူက ပန်ကာဒလက်နှစ်ခုတပ် ရဟတ်ယာဉ်ကို တည်ဆောက်ပြီးလျှင် ပေ ၇,၀၀၀ အမြင့်သို့ တနာရီခန့် ပျံသန်းတက်ပြလိုက်သောအခါ၌ သိပ္ပံပညာရှင်များသည် ရဟတ်ယာဉ် တည်ဆောက်ရေးကို စိတ်ဝင်စားလာခဲ့ကြပြန်သည်။

သိပ္ပံပညာရှင် ဆီကောစကီး ဆိုသူသည် လူစီးနိုင်သည့် ပန်ကာဒလက် တခုတပ် ရဟတ်ယာဉ်ကို ကမ္ဘာပေါ်တွင် ပဌမဆုံး တီထွင်နိုင်ခဲ့၏။ ဆီကောစကီးသည် ရုရှလူမျိုးဖြစ်၏။ ရုရှတော်လှန်ရေးကြီး ပြီးသည့်နောက် အမေရိကန်ပြည်ထောင်စုသို့ ပြောင်းရွှေ့နေထိုင်ခဲ့စဉ် ၁၉၃၉ ခုနှစ်တွင် ထိုရဟတ်ယာဉ်ကို တီထွင်နိုင်ခဲ့ခြင်း ဖြစ်လေသည်။

**ရဟတ်ယာဉ်အသုံးပြုပုံ**

ရဟတ်ယာဉ်သည် အတောင်ပံရှိသော ဂျက်လေယာဉ်ပျံများကဲ့သို့ အရှိန်အဟုန်ပြင်းစွာဖြင့် ပျံသန်းနိုင်စွမ်း မရှိပေ။ သို့သော် လူတို့အတွက် အသုံးကျမှုတွင်မူ အတောင်ပံတပ် လေယာဉ်ပျံများကဲ့သို့ပင် အစွမ်းထက်လှဘိ၏။ ရဟတ်ယာဉ်သည် လေယာဉ်ပြေးလမ်း မလိုပဲ ဒေသမရွေးပျံသန်းနိုင်သည့်အတွက် သမားရိုးကျ လေယာဉ်ပျံများ မဆင်းသက်နိုင်သော ဒေသသို့ ချောစာများ ပို့နိုင်သည်။ ခရီးသည်များ ပို့နိုင်သည်။ ကုန်ပစ္စည်းများ ပို့နိုင်သည်။

ကယ်ဆယ်ရေးလုပ်ငန်းတွင်မူ ရဟတ်ယာဉ်သည် ယနေ့ မရှိ မဖြစ်သော ယာဉ်ဖြစ်နေ၏။ သင်္ဘောများနစ်မြုပ်ခြင်း၊ လေယာဉ်ပျံများ ပျက်ကျခြင်း ဘေးဒုက္ခပေါ်ချိန်တွင် ရဟတ်ယာဉ်သည် အသက်ရှင်ကျန်ရစ်သူများကို အချိန်မီ ကယ်ဆယ်ရန် အဓိက အားထားရသောယာဉ်ဖြစ်၏။ သစ်တောများ မီးလောင်၍ မီးငြိမ်းသတ်ရသော လုပ်ငန်းများ၊ သီးနှံခင်းများ ပိုးကျ၍ ပိုးသတ်ဆေး ဖျန်းသော လုပ်ငန်းများတွင်လည်း ရဟတ်ယာဉ်ကိုပင် အားထား အသုံးပြုနေရ၏။

စစ်အတွက်မူ ရဟတ်ယာဉ်သည် အမျိုးမျိုးအသုံးကျလျက် ရှိ၏။ ရဟတ်ယာဉ် ပေါ်စက စစ်မြေပြင်မှ လူနာသယ်ရန် အတွက်သာ အသုံးပြုသော်လည်း ယနေ့ ကင်းထောက်ခြင်း၊ ဓာတ်ပုံရိုက်ခြင်း၊ အရေးကြီးပုဂ္ဂိုလ်များ သယ်ဆောင်ခြင်း လုပ်ငန်းများမှအစ သမားရိုးကျ လေယာဉ်ပျံများ ရှာဖွေပစ်ခတ်ရန် ခက်ခဲသော ရန်သူစခန်းငယ်များကို ဗုံးကျဲခြင်း၊ စက်သေနတ်ဖြင့်ပစ်ခြင်း၊ တုံးပျံလက်နက်ဖြင့်ပစ်ခြင်း လုပ်ငန်းများအထိ အလွန်ကျယ်ပြန့်စွာ အသုံးပြုလျက်ရှိ၏။ အနာဂတ်တွင်လည်း ရဟတ်ယာဉ်၏စခန်းသည် ယခုထက်ပင် ကျယ်ပြန့်လာဦးမည်ဟု မြော်လင့်ထားကြလေသည်။

**ဟယ်လီဂိုလန် ကျွန်း။** ။ဟယ်လီ ဂိုလန်ကျွန်းသည် မြောက်ပင်လယ်တွင် တည်ရှိသော အနောက် ဂျာမနီပိုင်ကျွန်းငယ်ဖြစ်သည်။ အကျယ်အဝန်းအားဖြင့် ⅔ စတုရန်းမိုင်မျှသာ ရှိသည်။ ကျွန်းကမ်းခြေတလျှောက်တွင် အရှေ့

တောင်ဖက်ပိုင်းမှ လွဲ၍ ပေ ၂၀၀ ခန့် မြင့်မားသော သဲကျောက်ကမ်းပါးယံတို့ ကာရံလျက်ရှိသည်။ ဂျာမနီနိုင်ငံ အဲ့လဗမြစ်ဝ အနောက်မြောက်ဖက် ၄၄ မိုင် ကွာဝေးသည်။

ဟယ်လီဂိုလန်ကျွန်းသည် ပဌမ ကမ္ဘာစစ်နှင့် ဒုတိယ ကမ္ဘာစစ်အတွင်းက ဂျာမန်တို့အတွက် အလွန်အရေးပါ အရာရောက်သော ရေတပ်စခန်း ဖြစ်ခဲ့ခြင်းကြောင့်"မြောက်ပင်လယ်မှ ဂျီဗရော်တား ခံတပ်"ဟူ၍ပင် ခေါ်စမှတ် ပြုကြသည်။ ၁၈၀၇ ခုနှစ်တွင် ဂရိတ်ဗြိတိန်နိုင်ငံသည် ထိုကျွန်းကို ဒိန်းမတ်နိုင်ငံမှ ရရှိခဲ့သည်။ တဖန် ၁၈၉၀ ပြည့်နှစ်မှစ၍ ထိုကျွန်းကို ဂျာမန်တို့က ပိုင်ခဲ့သည်။ ဂျာမန်တို့သည် မိမိတို့၏ ဆိပ်ကမ်းမြို့များနှင့် ကီးတူးမြောင်းကို ကာကွယ်ရန်အတွက် ဟယ်လီဂိုလန်ကျွန်းကို ခံတပ်အဖြစ် အခိုင်အခံ့ စီမံထားခဲ့ကြလေသည်။ (ကီးတူးမြောင်း — လည်းရှု။)

ပဌမ ကမ္ဘာစစ်(၁၉၁၄—၁၈)ပြီးသည့်နောက် ၁၉၁၉ ခုနှစ်တွင် ဗာဆေး စာချုပ်အရ ဂျာမန်တို့သည် ထိုကျွန်းရှိ ခံတပ်ကို ဖျက်သိမ်းခဲ့ကြရသည်။ ဂျာမနီနိုင်ငံတွင် ဟစ်တလာ ကြီးစိုးလာသောအခါ ထိုကျွန်း၌ ခံတပ်အသစ် တည်ဆောက်ခဲ့ပြန်သည်။ ထို့ကြောင့် ဒုတိယ ကမ္ဘာစစ်(၁၉၃၉—၄၅)အတွင်းက မဟာမိတ် လေတပ်သည် ထိုကျွန်းကို ပြင်းထန်စွာ ဗုံးကြဲတိုက်ခိုက်ခဲ့ရာ ၁၉၄၅ ခုနှစ် မေလတွင် ကျွန်းပေါ်ရှိ ဂျာမန်တပ်သည် ဗြိတိသျှတို့ထံတွင် လက်နက်ချ အညံ့ခံကြလေသည်။ ၁၉၄၇ ခုနှစ် ဧပြီလတွင် ဗြိတိသျှ ရေတပ်က ကျွန်းပေါ်ရှိ ခံတပ် အစီအမံရှိသမျှတို့ကို အပြီးသတ် ဖောက်ခွဲ ဖျက်ဆီးပစ်ခဲ့ကြ လေသည်။

၁၉၅၂ ခုနှစ်သို့ ရောက်သောအခါ ဟယ်လီဂိုလန်ကျွန်းကို အနောက်ဂျာမနီ အစိုးရလက်သို့ ပြန်လည်ပေးအပ်ခဲ့သည်။ ၁၉၃၉ ခုနှစ်က ထိုကျွန်းပေါ်တွင် နေထိုင်သူဦးရေမှာ ၂၅၈၈ ယောက် ဖြစ်သည်။

**ဟယ်လိုဂျင်။** ။ဒြပ်စင် လေးမျိုးဖြစ်သော ဖလူအိုရင်၊ ကလိုရင်း၊ ဗရိုမင်းနှင့် အိုင်အိုဒင်းတို့ကို စုပေါင်း၍ ဟယ်လိုဂျင်ဟု ခေါ်ကြလေသည်။ ယင်းတို့၏ ဓာတုသင်္ကေတများမှာ F, Cl, Br နှင့် I တို့ဖြစ်ကြသည်။ အလှည့်မှန် ဇယားတွင် အဆိုပါ ဒြပ်စင်များသည် သတ္တမမြောက် အုပ်စုဖြစ်သည်။ ဟယ်လိုဂျင်ဆိုသော စကားလုံး၏ အဓိပ္ပါယ်မှာ "ဓာတ်ဆား ဖြစ်စေသော ပစ္စည်း"ဖြစ်သည်။ ပင်လယ်တွင်းရှိ ဓာတ်ဆားများသည် အဆိုပါ ဒြပ်စင်လေးမျိုးနှင့် သတ္တုများ ပူးပေါင်းနေသော ဟယ်လိုဂျင် ဒြပ်ပေါင်းများဖြစ်သည်။ လူသိများ၍ လူတိုင်းသုံးနေသော အိမ်သုံးဆားသည် ထိုကဲ့သို့သော ဒြပ်ပေါင်းတမျိုးဖြစ်သည်။ အမှန်မှာ အိမ်သုံးဆားသည် ဆိုဒီယမ်နှင့် ကလိုရင်း ပေါင်းနေသော ဆိုဒီယမ် ကလိုရိုက်ခေါ် ဒြပ်ပေါင်းတမျိုး ဖြစ်လေသည်။

ထို ဒြပ်စင်လေးမျိုးစလုံးသည် ပြင်းထန်၍ မနှစ်မြို့ဖွယ်သော အနံ့များ ရှိပြီးလျှင် အသားကိုလည်း လောင်စေတတ်သည်။ ယင်းတို့သည် ရေတွင် များများမပျော်ဝင်ကြချေ။သာမန် အပူချိန်များတွင် ဖလူအိုရင်သည် အဝါရောင် ဓာတ်ငွေ့ဖြစ်၍ ကလိုရင်းသည် ဝါစိမ်းစိမ်း ဓာတ်ငွေ့ဖြစ်သည်။ ဗရိုမင်းမှာ အနီရောင် အရည်ဖြစ်၍ အိုင်အိုဒင်းမှာ အမည်းရောင် အခဲဖြစ်သည်။ ဟယ်လိုဂျင်ခေါ် ဒြပ်စင်လေးမျိုးအနက် ဖလူအိုရင်သည် အပေါ့ဆုံးဖြစ်၍ အိုင်အိုဒင်းသည် အလေးဆုံးဖြစ်သည်။ ဖလူအိုရင် အက်တမ်အလေးဆမှာ ၁၉ ဖြစ်၍ ကလိုရင်း၏ အက်တမ် အလေးဆမှာ ၃၅.၄၅၇ ဖြစ်သည်။ ဗရိုမင်း၏ အက်တမ်အလေးဆမှာ ၇၉.၉၁၆ ဖြစ်၍ အိုင်အိုဒင်း၏ အက်တမ် အလေးဆမှာ ၁၂၆.၉၂ ဖြစ်သည်။

ဖလူအိုရင် ဒြပ်စင်ကို ဖလူအို စပါးခေါ် သတ္တုတမျိုးအဖြစ်နှင့် ကယ်လဆီယမ်နှင့် ပေါင်းလျက် တည်ရှိခြင်းကို သဘာဝအလျောက် တွေ့ရှိနိုင်ပေသည်။ ထို ဖလူအို စပါးခေါ် သတ္တုသည် ဓာတ်သဘောအရ ကယ်လဆီယမ် ဖလူအိုရိုက် $CaF_2$ ဖြစ်သည်။ ထို ဖလူအို စပါးကို သံမဏိပြုလုပ်ရာတွင် သတ္တုပျော်ကူ အဖြစ်နှင့် အသုံးပြုနိုင်သည်။

ဖလူအိုရင်ဒြပ်စင်သည် အခြားဒြပ်စင်များနှင့် အလွန်ပူးပေါင်းလိုသောဓာတ်ငွေ့ ဖြစ်သည်။ သတ္တုတိုင်းနှင့်ပူးပေါင်းနိုင်လေသည်။ပလက်တီနမ်ကိုပင်လျှင်စားပစ်နိုင်လေသည်။

ကလိုရင်း ဓာတ်ငွေ့ကို ကမ္ဘာစစ်(၁၉၁၄—၁၈)အတွင်းက အဆိပ်ဓာတ်ငွေ့အဖြစ်နှင့် အသုံးပြုခဲ့ကြလေသည်။ကလိုရင်းသည် သဘာဝအတွင်း၌ သတ္တုများနှင့် ပူးပေါင်းကာ တည်ရှိသည်။ ထိုသို့ ပူးပေါင်းလျက် ရှိကြသော ဒြပ်ပေါင်းများ အနက် အရေးအကြီးဆုံး ဒြပ်ပေါင်းတခုမှာ ပင်လယ်သမုဒ္ဒရာများ အတွင်း၌ အမြောက်အမြား တည်ရှိနေကြသော ဆားငန်ရည်များမှ ရယူနိုင်သော ဆိုဒီယမ် ကလိုရိုက် (အိမ်သုံးဆား)ဖြစ်သည်။ ထို ဒြပ်ပေါင်း၏ ဓာတုသင်္ကေတမှာ $NaCl$ ဖြစ်သည်။

ဗရိုမင်းဓာတ်ငွေ့ကို ၁၈၂၆ ခုနှစ်က ဗေးလား ဆိုသည့် ပြင်သစ်လူမျိုး ဓာတုဗေဒ ပညာရှင်တဦးက တွေ့ရှိခဲ့လေသည်။ ဓာတ်သဘောအရ ဗရိုမင်းက ကလိုရင်းနှင့် တူသော်လည်း ယင်းသည် သာမန်အပူချိန်များတွင် နီညိုရောင်ရှိသည့် အရည်ဖြစ်လေသည်။ စူးရှပြီးလျှင် အဆိပ်ဓာတ်ရှိသော အငွေ့များကို လွှတ်ထွက်စေသည်။ ယင်းသည် သတ္တုများနှင့် ပူးပေါင်းပြီးလျှင် ဗရိုမိုက်များကို ဖြစ်ပေါ်စေသည်။ ရိုးရိုးပင်လယ်ရေတွင် ဗရိုမိုက်များ အဖြစ်နှင့် ရာခိုင်နှုန်း .၀၀၇ မျှသာ ပါရှိသော်လည်း အမေရိကန်နိုင်ငံ၌ စက်များဖြင့် ပင်လယ်ရေမှ တနေ့လျှင် ၁၅,၀၀၀ ပေါင်မျှသော ဗရိုမင်းများကို ထုတ်ယူနိုင်ကြလေသည်။

အိုင်အိုဒင်း သန့်သန့်သည် ခရစ္စတယ်လိုင်း (ပွင့်ပုံရှိ) ပစ္စည်းဖြစ်ပြီးလျှင် ယင်းကို အပူတိုက်လိုက်သောအခါ ခရမ်းရောင် အငွေ့များကို ဖြစ်ပေါ်စေသည်။ ၁၈၁၁ ခုနှစ်တွင် ဗားနတ် ကူးတွားက စတင်တွေ့ရှိခဲ့လေသည်။ သတ္တုများနှင့် ပူးပေါင်းသောအခါ သက်ဆိုင်ရာ သတ္တု၏ အိုင်အိုဒိုက်များ ဖြစ်လာသည်။

လူတို့တွင် အိုင်အိုဒင်းဓာတ် နည်းပါးလျှင် လည်ပင်းကြီးနာဟု ခေါ်သော ရောဂါကို ဖြစ်ပေါ်စေနိုင်သည်။ တနေ့လျှင် အနည်းငယ်မျှသာ အိုင်အိုဒင်းကို စားသောက်ပေးခြင်းဖြင့် လည်ပင်းကြီးနာ ဖြစ်ခြင်းမှ ကင်းဝေးစေနိုင်သည်ဟု ယုံကြည်ကြသည်။

ပင်လယ်ကျောက်ပွင့်မျိုး၊ ပင်လယ်ရေ၊ ငါးနှင့် ဆားရည်အနီးရှိ လေများတွင် အိုင်အိုဒင်းကို တွေ့ရှိနိုင်လေသည်။

**ဟယ်လင်၊ ထရွိုင်းမြို့က။** ။ထရွိုင်းမြို့ ပုံပြင် — ရှု။

**ဟဲရဝဒ်-သ-ဝိတ်။** ။အင်္ဂလန် နိုင်ငံတွင် ဟဲရဝဒ်ဟူသော အမည်သည် ကျောင်းသားသူငယ်တို့အတွက် မျိုးချစ်စိတ် ထက်သန်ခြင်း၊ စွန့်စားခြင်း၊ ရဲစွမ်းသတ္တိရှိခြင်း၊ ကိုယ်ကျိုးစွန့်ခြင်း စသည်ဖြင့် သူရဲကောင်းတို့၏ အရည်အခြင်းများကို ထုတ်ဖော်နိုင်စွမ်းရှိသော အမည်ဖြစ်၍ ၁၁ ရာစုနှစ်အတွင်းက နော်မန်ဘုရင်၏ ကြီးစိုးမှုအောက်မှ လွတ်မြောက်ရန် နောက်ဆုံး ကြိုးပမ်းခဲ့သော အင်္ဂလိပ်မျိုးချစ်ခေါင်းဆောင်၏ အမည်လည်း ဖြစ်သည်။ ၁၈၆၆ ခုနှစ်တွင် နာမည်ကျော် စာရေးဆရာ ချားကင်းစလေက လူစွမ်းကောင်း ဟဲရဝဒ်၏စွန့်စားခန်းများကို "ဟဲရဝဒ်—သ—ဝိတ်"အမည်ဖြင့် သမိုင်းဝတ္ထုတပုဒ် ရေးသားထုတ်ဝေခဲ့လေသည်။

ဟဲရဝဒ်၏ မိဖမျိုးရိုးကို အသေအချာ မသိရချေ။ အချို့က သူ၏ဖခင်သည် အက်ဒွပ်—သ—ကွန်ဖက်ဆားဘုရင်လက်ထက်က အင်္ဂလန်နိုင်ငံ အလယ်ပိုင်းရှိ မြေယာအားလုံးနီးပါးမျှကိုပိုင်သော အား ဘွဲ့ရ လီယိုဖရစ် ဆိုသူ ဖြစ်သည်ဟု ဆိုကြသည်။ အချို့ကလည်း ဟဲရဝဒ်သည် လင်းကွန်းရှိုင်ယာနယ်မှ မြေပိုင်ရှင်ကလေးတဦးယောက် ဖြစ်သည်ဟု ဆိုကြသည်။ မည်သို့မဆို အီလီကျွန်းတွင် အင်္ဂလိပ်တို့သည် နော်မန်တို့ကို ခုခံတိုက်ခိုက်ခဲ့စဉ်က သူ၏ လက်အောက်တွင် အားဘွဲ့ရပုဂ္ဂိုလ်များ ဖြစ်ကြသော အက်ဒွင်နှင့် မော်ကားတို့ပါဝင်ကြခြင်းကို ထောက်၍ သူသည်မြေပိုင်ရှင်သူကောင်းမျိုးရိုးမှ ဆင်းသက်လာသူ ဖြစ်မည်ဟု ယူဆနိုင်လေသည်။

အက်ဒွပ်—သ—ကွန်ဖက်ဆား ဘုရင်လက်ထက်တွင် ပြင်သစ် အမျိုးသားတို့ကို ရာထူးကြီးများ၌ ခန့်ထား၍ ခြိုးမြှင့်မြှောက်စားခဲ့သည်။ဟဲရဝဒ်သည် ပြင်သစ်တို့အား ထိုကဲ့သို့ မျက်နှာသာ ပေးထားခြင်းကို မလိုမုန်းတီးသဖြင့် ဘုရင်ကို အတိုက်အခံ ပြုမိသောကြောင့် ပြည်နှင်ဒဏ် ခံရသည်။ သူသည် မျိုးချစ်စိတ် ပြင်းထန်သူဖြစ်၍ ငယ်စဉ်ကတည်းက ဆက္ကဆန် သူရဲကောင်းတို့၏ အတ္ထုပ္ပတ္တိနှင့် စစ်ချီတေးသံများကို စိတ်ဝင်စားစွာ နားထောင်လေ့ ရှိသည်။ မိခင်က သူ့ကို ဘုန်းကြီးဖြစ်စေချင်၏။ သို့ရာတွင် သူသည် လွတ်လပ်မှုကို နှစ်သက်သဖြင့် စည်းကမ်း အချုပ်အချယ်များသော ဘုန်းကြီးဘဝ၌ မနေလိုချေ။

ဟဲရဝဒ်သည် နော်မန်တို့ကို အလွန်မုန်းတီးသူ ဖြစ်ရာ၊ မိမိ၏ မိခင်ပိုင် မြေယာတို့ကို သိမ်း၍ နော်မန်တဦးအား ပေးအပ်ကြောင်း ကြားသိရလျှင် သိရခြင်း အင်္ဂလန်နိုင်ငံသို့ ပြန်ခဲ့သည်။ ၁၀၆၉ ခုနှစ်တွင် ဒိန်းလူမျိုးတို့သည် ကနွတ်ဘုရင်၏ တူတော်ကို အင်္ဂလိပ်ထီးနန်း၌ တင်ရန် ရည်ရွယ်၍ အင်္ဂလန်နိုင်ငံသို့ နောက်ဆုံးအကြိမ် ချီတက်တိုက်ခိုက်ကြသည်။ ဟဲရဝဒ်နှင့်တကွ အင်္ဂလိပ် မျိုးချစ်ပုဂ္ဂိုလ်တို့ကလည်း နော်မန်တို့ကို မောင်းထုတ်နိုင်ရန် ဒိန်းတို့နှင့် ပူးပေါင်းတိုက်ခိုက်ကြသည်။ ထိုသို့ တိုက်ခိုက်ကြရာ၌ ပီတာဗာရိုမြို့ကို ဖျက်ဆီး၍ ဘုန်းကြီးကျောင်းကို လုယူကြသည်။ ထိုနောက် ဒိန်းတို့သည် လုယူရရှိသော ပစ္စည်းဥစ္စာများကို ယူဆောင်၍ မိမိတို့ နိုင်ငံသို့ ပြန်ကြလေသည်။ ထို့ကြောင့် ဟဲရဝဒ်နှင့် နောက်ပါ လူစုတို့သည် အီလီကျွန်းသို့ ပြေး၍ အခိုင်အမာ တပ်စွဲနေရလေသည်။

၁၀၇၁ ခုနှစ်တွင် နော်မန်ဘုရင် ပဌမ ဝီလျံသည် အီလီရှိ ခံတပ်ကို ချီတက်တိုက်ခိုက်ရာ ဟဲရဝဒ်တို့ မခံနိုင်၍ ထွက်ပြေးခဲ့ရသည်။ ထိုနောက်တွင် ဟဲရဝဒ်၏ အကြောင်းသည် တိမ်မြုပ် ပျောက်ကွယ်သွားခဲ့လေသည်။

**ဟဲရိုးဘုရင်။** ။အင်္ဂလန်နိုင်ငံ ဘုရင်များတွင် ဟဲရိုးဘွဲ့ခံဘုရင်နှစ်ပါးရှိ၍ ထိုဘုရင်နှစ်ပါးစလုံးသည် နော်မန်မင်းဆက်မတိုင်မီက အုပ်ချုပ်ခဲ့သော မင်းများ ဖြစ်ကြသည်။ ပဌမ ဟဲရိုးဘုရင်သည် ကနွတ်ဘုရင်၏ သားတော်ဖြစ်၍ ၁၀၃၇ ခုနှစ်တွင် အင်္ဂလိပ်ထီးနန်းကို ဆက်ခံအုပ်စိုးသည်။ ၁၀၄၀ ပြည့်နှစ်တွင် ကွယ်လွန်လေသည်။ (ကနွတ်ဘုရင် — လည်းရှု။)

ဒုတိယဟဲရိုးဘုရင် (ခရစ် ၁၀၂၀ ခန့် ၁၀၆၆)။ ။ ဒုတိယ ဟဲရိုးဘုရင်သည် အင်္ဂလိုဆက္ကဆန်မင်းဆက်တွင် နောက်ဆုံးဘုရင်ဖြစ်၍၊ နန်းသက် ကိုးလနီးပါးမျှသာ ကြာသည်။ ဟဲရိုးသည် အင်္ဂလန်နိုင်ငံတွင် တန်ခိုးအာဏာကြီးမားသော အားဘွဲ့ရ ဝက်ဆက်နယ်စား ဂေါ်ဒွင်၏ သား ဖြစ်သည်။ ၁၀၅၃ ခုနှစ်တွင် ဂေါ်ဒွင်ကွယ်လွန်သောအခါ ဟဲရိုးသည် ဝက်ဆက်နယ်စားဘွဲ့ကို ဆက်ခံရရှိလေသည်။ ထိုအချိန်မှစ၍ ဟဲရိုးသည် အင်္ဂလန်နိုင်ငံတွင်



အင်္ဂလိုဆက္ကဆန်မင်းဆက်မှ နောက်ဆုံးဖြစ်သော ဟဲရိုးဘုရင်

ပစ္စည်းဥစ္စာချမ်းသာကြွယ်ဝဆုံးနှင့် အထင်ရှားဆုံး ပုဂ္ဂိုလ်ကြီး ဖြစ်လာလေသည်။

အက်ဒွပ်—သ—ကွန်ဖက်ဆားသည် ၁၀၆၆ ခုနှစ်တွင် သားထောက်သမီးခံ မကျန်ရစ်ပဲ ကွယ်လွန်ခဲ့ရာ မှူးမတ်မျိုးနွယ်အပေါင်းတို့က ဟဲရိုးကို ဘုရင်အဖြစ် တင်မြှောက်ကြသည်။ သို့ရာတွင် နော်မန်ဒီနယ်စား ဝီလျံက ဦးရီးတော် အက်ဒွပ်ဘုရင်သည် မိမိအား ထီးနန်းကို ဆက်ခံစေမည်ဟု ကတိပေးခဲ့ဘူးသည် ဟူ၍၎င်း၊ ဟဲရိုးကိုယ်တိုင်ကလည်း အင်္ဂလိပ်ထီးနန်း ရရှိရေး၌ မိမိအား ကူညီပါမည်ဟု သစ္စာဆိုခဲ့ဘူးသည်ဟူ၍၎င်း အကြောင်းပြု၍ မိမိသာလျှင် ထီးနန်းကို ဆက်ခံထိုက်သည်ဟု တောင်းဆိုလာလေသည်။ ဟဲရိုးဘုရင်ကလည်း အင်္ဂလန်နိုင်ငံတွင် နော်မန်တို့ လာရောက်ကြီးစိုးမှုကို ခုခံတွန်းလှန်ရန် အသင့်ပြင်ထားသည်။ (ဝီလျံ၊အင်္ဂလိပ်ဘုရင်များ — လည်းရှု။)

၁၀၆၆ ခုနှစ် အောက်တိုဘာလတွင် ဝီလျံ၏ စစ်တပ်များက အင်္ဂလန်တောင်ဖက်ကမ်းခြေပေါ်သို့ တက်ရောက်လာကြသောအခါ ဟဲရိုးဘုရင်သည် မြောက်ပိုင်း၌ ဒိန်းလူမျိုးတို့ကို တိုက်ခိုက်နှိမ်နင်းလျက် ရှိသည်။ ဟဲရိုးသည် နော်မန်တို့ကို တိုက်ခိုက်ရန် မိမိ၏တပ်များကို တောင်ဖက်သို့ အပြင်းချီလာစေသည်။ နော်မန်တပ်များနှင့် ဟေးစတင်းမြို့အနီးတွင် အောက်တိုဘာလ ၁၄ ရက်နေ့၌ တွေ့ဆုံတိုက်ခိုက်ရာ ဟဲရိုးဘုရင်ကျဆုံးလေသည်။ (ဟေးစတင်းတိုက်ပွဲ — ရှု။)• ထိုတိုက်ပွဲတွင် အင်္ဂလိပ်တို့ အရေးနိမ့်ခဲ့ကြသဖြင့် အင်္ဂလန်နိုင်ငံ၌ အင်္ဂလိုဆက္ကဆန် မင်းဆက်ပြတ်၍ နော်မန်မင်းဆက်တို့ ကြီးစိုးလာကြလေသည်။

**ဟဲရင်းငါး။** ။ကမ္ဘာပေါ်တွင် ဟဲရင်းငါးသည် အရေးအကြီးဆုံး ဟင်းလျာဖြစ်သည်ဟု ယူဆကြ၏။ထိုငါးမျိုးကို အမေရိကတိုက်ရှိ လူများထက် ဥရောပတိုက်ရှိ လူများက ပို၍ စားသောက်ကြသည်။ ဟဲရင်းငါးသည် သန်းပေါင်းများစွာ အုပ်စုဖွဲ့၍ နေထိုင်ကြသည်။ ပစိဖိတ်သမုဒ္ဒရာ မြောက်ဖက်ပိုင်းနှင့် အတ္တလန္တိတ်သမုဒ္ဒရာ မြောက်ဖက်ပိုင်း၌ သမပိုင်းနှင့် ပို၍အေးသော ဒေသများတွင် ဟဲရင်းငါးများကို တွေ့ရလေသည်။ ဗြိတိသျှကျွန်းစု၏ အရှေ့ဖက်ရှိ မြောက်ပင်လယ်မှလည်း ဟဲရင်းငါး အမြောက်အမြားကို ရရှိလေသည်။

ဟဲရင်းငါး၏ ပျမ်းမျှ အလျားမှာ ဆဲ့နှစ်လက်မဖြစ်သည်။ ဟဲရင်းငါးသည် အကြေးခွံပါးပြီးလျှင် ကိုယ်အနေအထား အချိုးကျသည်။ ကိုယ်၏အပေါ်ပိုင်း အရောင်မှာ စိမ်းပြာရောင်မှ အမည်းရောင်အထိ ဖြစ်ပြီးလျှင် ဘေးဖက်အရောင်မှာ ငွေရောင်ဖြင့် တောက်ပလျက် ရှိသည်။ အောက်ပိုင်းသည် ဆွတ်ဆွတ်ဖြူ၏။ မေးရိုးနှစ်ဖက်တွင် အလွန်သေးငယ်သော သွားကလေးများရှိသည်။ ဟဲရင်းငါးသည် ရေသတ္တဝါငယ်ကလေးများကို စားသောက်လေသည်။ ခြောက်စဘုရန်းမိုင်မှ နှစ်ဆယ်အထိ ကျယ်ဝန်းသော ဧရိယာအတွင်း၌ သန်းပေါင်းများစွာသော ဟဲရင်းငါးတို့သည် ရေမျက်နှာပြင်အနီးတွင် ကူးလူးသွားလာကာ နေထိုင်ကြလေသည်။

ဟဲရင်းငါးသည် တချိန်တွင် ရေနက်ရာ၌ နေကြ၍ ရေတိမ်ရာကမ်းခြေဆီသို့ ရွှေ့ပြောင်းနေထိုင်ကြပြီးလျှင် ထိုနေရာများတွင် ဥများ အုကြလေသည်။ ဟဲရင်းငါးများသည် အုလိုသောအခါ ယင်းတို့ သတ်မှတ်ထားသောနေရာများသို့သာ သွား၍အုလေ့ရှိကြသည်။ ယင်းတို့သည် နွေကူးရာသီနှင့် ဆောင်းကူးရာသီများတွင် အုလေ့ရှိကြသည်။ သို့သော် ဟဲရင်းငါးသည် အသက် ငါးနှစ် မပြည့်မချင်း ဥများကို မအုနိုင်ကြချေ။

ဟဲရင်းငါးမသည် အရွယ်ကိုလိုက်၍အုပေါင်း ၂၀,၀၀၀ မှ ၆၀,၀၀၀ အထိ အုတတ်လေသည်။ ထိုဥများသည် ရေ၏အောက်ခြေရှိ ပင်လယ်ကျောက်ပွင့်မျိုးနှင့် ကျောက်များပေါ်တွင်တင်၍ ရှိကြလေသည်။ ရက်သတ္တပတ် အနည်းငယ်ကြာသောအခါ ထိုဥများမှ ငါးကလေးများ ပေါက်လာကြလေသည်။ သို့သော် ဟဲရင်းငါး၌ ရန်သူ မြောက်မြားစွာရှိသည်။ ထို့ကြောင့် အုမြောက်မြားစွာကို အုချသော်လည်း အရွယ်ရောက်သော ဟဲရင်းငါးအဖြစ်သို့ အနည်းငယ်မျှသာ ရောက်နိုင်ကြလေသည်။ ကနန်းနှင့်



ကလူပီးအီဒီးမျိုးရင်းဝင် ဟဲရင်းငါး

ငါးများက ဥနှင့်ငါးငယ် မြောက်မြားစွာကို စားပစ်ကြသည်။ အရွယ်ရောက်ပြီး ဟဲရင်းငါးများကိုမူ ဝေလငါး၊ လင်းပိုင်၊ ပင်လယ်ဖျံစသော ရေသတ္တဝါကြီးများကသာ စားကြသည်မဟုတ်၊ လင်းယုန်၊ ဇင်ယော်စသော ပင်လယ်ငှက်များကလည်း စားပစ်ကြလေသည်။

တံငါသည်များသည် ပင်လယ်ငှက်များပျံဝဲလျက်ရှိသည့် နေရာတွင် ဟဲရင်းငါးအုပ်ကြီးများကို တွေ့မြင်နိုင်ကြလေသည်။ ထိုပြင် ဟဲရင်းငါးများ ကူးသန်းသွားလာနေကြခြင်းဖြင့် ပင်လယ်တွင် အရောင်ထွက်လျက် ရှိခြင်းကြောင့်လည်း ဟဲရင်းငါးအုပ်ကြီးများ ရှိကြောင်းကို သိနိုင်ကြလေသည်။ စစ်အတွင်း၌ သင်္ဘောများတွင် ရေငုပ်သင်္ဘောများကို ရှာဖွေနိုင်သော ကရိယာများကဲ့သို့သော ကရိယာများကို တံငါလှေများတွင် တပ်ဆင်ထားခြင်းဖြင့်လည်း ဟဲရင်းငါးအုပ်ကြီးများ ရှိ မရှိကို သိနိုင်ကြသေးသည်။ ဟဲရင်းငါးဖမ်းခြင်းသည် ဘေးအန္တရာယ်နှင့် မကင်းချေ။ အထူးသဖြင့် လေအလွန်ထန်သော မြောက်ပင်လယ်တွင် ပို၍ဆိုးရွားလေသည်။ သို့သော်ထိုပင်လယ်၏ ပတ်ဝန်းကျင်တွင် ရှိကြသော အင်္ဂလန်၊ ပြင်သစ်၊ ဆွီဒင်နှင့် နော်ဝေ နိုင်ငံများမှ ငွေ့ရှိကြသော တံငါသည်များသည် ယင်းတို့၏ အသက်များကို ပမာမထားပဲ နှစ်စဉ်ပင် ဟဲရင်းငါးများကို ဖမ်းယူကြလေသည်။

ဟဲရင်းငါးများကို များသောအားဖြင့် ပိုက်ကြီးများဖြင့် ဖမ်းယူလေ့ ရှိကြသည်။ တံငါသည်များသည် ဟဲရင်းငါး အမြောက်အမြား မြင်ရသော နေရာသို့ သွားကြပြီးလျှင် ကြီးမားသည့် ပိုက်ကြီးကို ချကြလေသည်။ ထိုနောက် တံငါသည်များသည် လှေငယ်များဖြင့် ပိုက်၏ အစွန်းများဘလျှောက်တွင် လှော်ခတ်သွားကြကာ ငါးများကို ပိုက်၏အလယ်ဗဟိုဖက်ဆီသို့ သွားကြစေရန် ချောက်ပေးကြသည်။ ဟဲရင်းငါးများ ပိုက်၏ အလယ်ဗဟိုဖက်တွင် စုမိနိုင်သမျှ စုမိပြီဟု ယုံကြည်သောအခါတွင် လှေနှစ်စင်းသည် အချင်းချင်း ကပ်မိအောင် လှော်ခတ်ကြပြီးလျှင် ပိုက်ကြီးကို ဆယ်၍ယူလိုက်သောအခါ ထောင်ပေါင်းများစွာသောငါးများ ပိုက်တွင်း၌ ပါလာသဖြင့် လှေများအတွင်းသို့ လောင်းထည့်နိုင်ကြလေသည်။ ဟဲရင်းငါးလုပ်ငန်းတွင် နော်ဝေနိုင်ငံက အခြားနိုင်ငံများထက် သာလွန်လေသည်။

ဟဲရင်းငါးအချို့ကို အခြားငါးကြီးများဖမ်းရန် ငါးစာအဖြစ် အသုံးပြုကြ၍ အချို့ကိုမူ မြေသြဇာအတွက် အသုံးပြုကြသည်။ ဟဲရင်းငါးမှ ထုတ်ယူသည့်ဆီကို စက်များနှင့် အခြားကိစ္စများတွင် အသုံးပြုကြလေသည်။ အချို့ဟဲရင်းငါးများကို ကျပ်တင်ပြီးလျှင် နိုင်ငံခြားသို့ တင်ပို့ရောင်းချကြသည်။ ဟဲရင်းငါးအငယ်စားများကို စည်သွတ်ပြီးလျှင် ဆာဒင်းငါးအဖြစ်နှင့် ရောင်းချကြသည်။

ဟဲရင်းငါးသည် ကလူပီးအီဒီးမျိုးရင်းဝင် ဖြစ်သည်။ အတ္တလန္တိတ်သမုဒ္ဒရာတွင် တွေ့ရသော ဟဲရင်းငါးကို ပါဏဗေဒအလိုအားဖြင့် ကလူပီး ဟေရင်ဂပ်ဟု ခေါ်၍ ပစိဖိတ်သမုဒ္ဒရာတွင်တွေ့ရသော ဟဲရင်းငါးကို ကလူပီး ပလက်ဆီအီးဟု ခေါ်ကြသည်။

**ဟဲရဒ်ဘုရင်။** ။ဟဲရဒ်(ဟေရုဒ်)ဟူသော အမည်သည် ခရစ်တော် မပေါ်ထွန်းမီ နှစ် ၄၀ ခန့်မှစ၍ ပယ်လက်စတိုင်ပြည်တွင် အုပ်စိုးခဲ့သော မင်းဆက်၏ အမည်ဖြစ်သည်။ ဟဲရဒ် မင်းဆက်တွင် ဘီစီ ၃၇ ခုနှစ်မှ ဘီစီ ၄ ခုနှစ်အထိ ဂျူဒါပြည်ကို အုပ်စိုးခဲ့သော ဟဲရဒ်-သ-ဂရိတ်သည် အထင်ရှားဆုံး ဖြစ်သည်။

ဟဲရဒ်–သ–ဂရိတ် ( ဘီစီ ၇၃ ခန့်–ဘီစီ ၄ )။ ။ ဟဲရဒ်–သ–ဂရိတ်သည် ဂျူဒါပြည် ဘုရင်ခံ အန္တိပေတာ၏ ဒုတိယသား ဖြစ်သည်။ ဘီစီ ၄၀ ပြည့်နှစ်တွင် ရောမဆီနိတ်က ဟဲရဒ်ကို ဂျူဒါပြည် ဘုရင်အဖြစ် ခန့်အပ်သည်။ သို့ရာတွင် ဘီစီ ၃၇ ခုနှစ်သို့ ရောက်မှ ဂျူးဆလမ်း မြို့တော်ကို

ရန်သူများလက်မှ သိမ်းပိုက်နိုင်သည်။ ဟဲရဒ်ဘုရင်သည် ရောမတို့နှင့် ပူးပေါင်း၍ နိုင်ငံကို ချုပ်ထွင် တည်ထောင်ရာ၌ အတိုက်အခံပြုသူများကို ပြင်းထန်စွာ နှိပ်ကွပ်သည်။

ဂျရုးဆလမ်မြို့ရှိ ဘုရားဝတ်ကျောင်းကို အသစ် ပြန်ဆောက်၍ မြို့သစ်များ၊ ကပွဲရုံ၊ကစားရုံ၊ ခံတပ်များကိုလည်း နေရာအနှံ့၌ ဆောက်လုပ်သည်။ ခရစ်ယန်တို့၏ ဓမ္မသစ်ကျမ်း အလိုအရ ဟဲရဒ်ဘုရင်သည် ခရစ်တော်ယေရှု ဖွားမြင်ချိန်တွင် ယဟူဒီတို့ကို အုပ်စိုးမည့် ရှင်ဘုရင်တပါး ပေါ်ထွန်းကြောင်း ကြားရသဖြင့် ကလေးများကို သတ်ပစ်သည်ဟု ဆိုသည်။ (ခရစ်တော် ယေရှု — လည်းရှု။)

**ဟဲရဒ်အန္တိပတ်။** ။ဟဲရဒ် အန္တိပတ်သည် ဟဲရဒ်–သ–ဂရိတ်၏ သားတော်ဖြစ်၍ ဂယ်လီလီနယ်ကို ဘီစီ ၄ ခုနှစ်မှ အေဒီ ၃၉ ခုနှစ်အထိ အုပ်စိုးသော မင်းဖြစ်သည်။ ဓမ္မသစ်ကျမ်းတွင် ဖော်ပြသော ဟဲရဒ်မင်းသည် များသောအားဖြင့် ဟဲရဒ်အန္တိပတ်ပင် ဖြစ်သည်။ ရောမဘုရင်ခံ ပွန်းရှပ်ပိုင်းလတ်မင်းက ခရစ်တော်ယေရှုကို စီရင်ရန်လွှဲအပ်ခြင်း ခံရသူလည်း ဖြစ်သည်။

ဟဲရဒ် အန္တိပတ်သည် ညီအစ်ကိုဝမ်းကွဲ တော်စပ်သူ ဟဲရဒ် ဖိလစ်၏ဇနီး ဟီရောဒီးယပ်ကို သိမ်းပိုက်လိုသဖြင့် ပဌမဇနီးကို ကွာရှင်းပစ်သည်။ သူတော်စင် ဂျွန်–သ–ဗက်ပတစ် ဆိုသူက ဟဲရဒ်၏ အပြုအမူကို ပြစ်တင်ရှုတ်ချခဲ့ရာ ဟီရောဒီးယပ်သည် ပရိယာယ်ဆင်၍ သမီး ဆလိုမီအား မင်းကြီးထံ၌ ဂျွန်၏ ဦးခေါင်းကို တောင်းခံစေသည်။ မင်းကြီးကလည်း ဆလိုမီ တောင်းဆိုသည့်အတိုင်း ဂျွန်၏



ဟဲရဒ်-သ-ဂရိတ်ဘုရင်

ဦးခေါင်းကို ဖြတ်၍ ပေးစေသည်။ နောင်အခါတွင် ဤအကြောင်းအရာကို ကဇာတ် ကပြခြင်း အားဖြင့်၎င်း၊ ပန်းချီကား ရေးဆွဲခြင်း အားဖြင့်၎င်း သရုပ်ဖော်ခဲ့သည်။

အေဒီ ၃၇ ခုနှစ်တွင် ဟဲရဒ်သည် ရောမမြို့ ကေရာဇ် ဘုရင် ကလီဂျူလာထံသို့ သွားရောက်၍ ဘုရင်တပါးအဖြစ် ခန့်ရန် တောင်းဆိုသည်။ သို့သော်လည်း ကလီဂျူလာက ဟဲရဒ်အန္တိပတ်ကို သစ္စာဖောက်တဦးအဖြစ် ပြည်နှင်ဒဏ် ပေး၍ ရှုတ်ချခဲ့လေသည်။

**ဟဲရဒ်အဂရစ်ပါ(ပဌမ)။** ။ပဌမ ဟဲရဒ်–သ–ဂရိတ်၏ မြေးတော်ဖြစ်သည်။ အေဒီ ၄၁ ခုနှစ်တွင် ရောမကေရာဇ် ကလောဒီးယပ်က ဂျူဒါပြည် အပါအဝင် ပယ်လက်စတိုင်တခုလုံးကို ဘုရင်အဖြစ် အုပ်စိုးစေသည်။ အေဒီ ၄၄ နှစ်တွင် ကွယ်လွန်လေသည်။

**ဟဲရဒ်အဂရစ်ပါ (ဒုတိယ)။** ။ပဌမ ဟဲရဒ်အဂရစ်ပါ၏သားတော် ဒုတိယ ဟဲရဒ်အဂရစ်ပါသည် ဟဲရဒ် မင်းဆက်တွင် နောက်ဆုံး မင်းဖြစ်သည်။ ယဟူဒီတို့က ရောမ အာဏာပိုင်တို့ကို ပုန်ကန်ကြသောအခါ ဟဲရဒ်သည် ရောမတို့ဖက်မှ ကူညီ၍ တိုက်ခိုက်နှိမ်နင်းခဲ့သူ ဖြစ်သည်။ အေဒီ ၁၀၀ ပြည့်နှစ်တွင် ကွယ်လွန်လေသည်။

**ဟဲလဆင်းကီးမြို့။** ။ဟဲလဆင်း ကီးမြို့သည် ဖင်းလန်နိုင်ငံ၏ မြို့တော်ဖြစ်၍ ဖင်းလန် ပင်လယ်ကွေ့ မြောက်ဖက်ကမ်းခြေပေါ်တွင် တည်ရှိသည်။ ရုရှနိုင်ငံရှိ လီနင်ဂရက်မြို့မှ အနောက်ဖက်သို့ မီးရထားလမ်းဖြင့် မိုင် ၂၅၀ ကွာဝေးသည်။ ဟဲလဆင်းကီးမြို့သည် သင်္ဘောဆိပ်ကောင်းရှိသဖြင့် ဖင်းလန်နိုင်ငံ၏ ဆိပ်ကမ်းမြို့ကြီးလည်း ဖြစ်သည်။ ဆောင်းရာသီတွင် ဆိပ်ကမ်းသည် ရက်သတ္တ လေးပတ်ခန့်မျှ ရေခဲဖြင့် ပိတ်ဆို့လျက် ရှိတတ်သည်။

ဂရိတ်ဗြိတိန်နိုင်ငံ၊ ဂျာမနီနိုင်ငံ၊ ဆွီဒင် နိုင်ငံတို့နှင့် ကုန်အရောင်းအဝယ် ဆက်သွယ်လျက် ရှိ၍ သစ်၊ စက္ကူ၊ ဆဲလျူလို့တို့ကို တင်ပို့ရောင်းချသည်။ သကြားစက်၊ အရက်ချက်စက်၊ စက်ကရိယာ ထုတ်လုပ်သည့် စက်၊ ကောဇော ရက်လုပ်သည့်စက် စသောစက်မှုလုပ်ငန်းများလည်းရှိသည်။

ဟဲလဆင်းကီးမြို့သည် ဖင်းလန်နိုင်ငံတွင် ပညာရေးနှင့် ယဉ်ကျေးမှု ထွန်းကားရာ ဗဟိုဌာန ဖြစ်သည်။ ၁၉၅၂ ခုနှစ် အိုလင်းပစ် အားကစားပွဲကို ဟဲလဆင်းကီးမြို့၌ ကျင်းပခဲ့သည်။ လူဦးရေ ၅၂၆,၇၉၆ ယောက် (၁၉၆၇) နေထိုင်သည်။

ဆွီလူမျိုးတို့က ထိုမြို့ကို ၁၅၅၀ ပြည့်နှစ်တွင် တည်ခဲ့ကြသည်။ မူလမြို့ကွက်သည် လက်ရှိ မြို့တည်ရာမှ အရှေ့မြောက်ဖက် ငါးမိုင်ကွာတွင် ဖြစ်၍ ၁၆၄၂ ခုတွင် လက်ရှိနေရာသို့ ပြောင်းရွှေ့ခဲ့ကြသည်။ ၁၈၁၉ ခုနှစ်တွင် ဖင်းလန်သမတ



ဖင်းလန်နိုင်ငံ၏မြို့တော် ဟဲလဆင်းကီးမြို့

နိုင်ငံ၏ မြို့တော်ဖြစ်လာသည်။ ၁၉၃၉–၄၀ ပြည့်နှစ်အထိ ဖြစ်ပွားသော ရုရှ–ဖင်းလန် စစ်ပွဲတွင် ဟဲလဆင်းကီးမြို့သည် ရုရှ လေတပ်က ဖုံးကြဲတိုက်ခိုက်ခြင်းကို ခံခဲ့ရသည်။ ထိုနောက် ၁၉၄၁ ခုနှစ်တွင် ဖင်းလန်နိုင်ငံသည် ဂျာမနီနိုင်ငံနှင့် ပူးပေါင်း၍ ရုရှနိုင်ငံကို တိုက်ခိုက်သည်။ ၁၉၄၄ ခုနှစ်တွင် ရုရှနိုင်ငံနှင့် စစ်ပြေငြိမ်းရေး စာချုပ်ကို ချုပ်ဆိုခဲ့ကြလေသည်။

**ဟဲလဖက်မြို့။** ။ဟဲလဖက်မြို့သည် ကနေဒါနိုင်ငံ၊ နိုဗာစကိုးရှား ပြည်နယ်၏ မြို့တော်ဖြစ်သည်။ ပြည်နယ် အရှေ့ဖက် ကမ်းခြေတွင် တည်ရှိ၍ ကမ်းရိုးတန်း နယ်များ၌ အကြီးဆုံး ဆိပ်ကမ်းမြို့ ဖြစ်သည်။ ဆောင်းအခါ၌ စိန့်လောရင့်မြစ် ရေခဲသောကြောင့် မွန်းထရီးအောမြို့နှင့် ကွီဗက်မြို့တို့၏ ဆိပ်ကမ်းများကို ပိတ်ထားရစဉ် ဟဲလဖက်ဆိပ်ကမ်းတွင် ရေခဲကင်းရှင်းလျက် ရှိသဖြင့် ကုန်တင်ကုန်ချ လုပ်ငန်းကို အခြေမပျက် ဆောင်ရွက်နိုင်သည်။ ဟဲလဖက်မြို့သည် ကနေဒါနိုင်ငံသမိုင်း ခေတ်ဦးက ခံတပ်မြို့ဖြစ်သည့် နည်းတူ ယခုအခါ၌လည်း အတ္တလန္တိတ်သမုဒ္ဒရာဖက်ဆိုင်ရာ ကနေဒါနိုင်ငံ ရေတပ်မတော်၏ ဌာနချုပ်စခန်း ဖြစ်သည်။

ဟဲလဖက်မြို့သည် မွန်းထရီးအောမြို့ အရှေ့ဖက် ၇၄၇ မိုင်ကွာ၌ တည်ရှိ၍ ကနေဒါနိုင်ငံဖြတ် မီးရထားလမ်းမကြီး နှစ်ခုအတွက် လမ်းဆုံးမြို့လည်း ဖြစ်သည်။ ဟဲလဖက်မြို့၌ သကြားစက်ရုံ၊ ခေါတ်ဆီချက် စက်ရုံ၊ သင်္ဘောတည်ဆောက်သည့် လုပ်ငန်း၊ စက်ကရိယာလုပ်ငန်း စသော စက်မှု လုပ်ငန်းများ ထွန်းကား၍ ငါး၊ သစ်၊ ပန်းသီးတို့ကို တင်ပို့ရောင်းချသည်။

ဟဲလဖက်မြို့ကို ဗြိတိသျှတို့က ၁၇၄၉ ခုနှစ်တွင် တည်ထောင်ခဲ့သည်။ ၁၇၅၀ ပြည့်နှစ်တွင် နိုဗာစကိုးရှားပြည်နယ်၏ မြို့တော် ဖြစ်လာသည်။ အားဘွဲခံ ဟဲလဖက်မြို့စားကို ဂုဏ်ပြုသည့် အနေဖြင့် မြို့အမည်ကို ဟဲလဖက်ဟု ခေါ်တွင်စေသည်။ ပဌမ ကမ္ဘာစစ်နှင့် ဒုတိယကမ္ဘာစစ် အတွင်းက ဟဲလဖက်မြို့သည် မဟာမိတ်တို့အတွက် စစ်ပစ္စည်းများ တင်ပိုရာ ဆိပ်ကမ်းမြို့ ဖြစ်ခဲ့သည်။ ဟဲလဖက်မြို့တွင် လူဦးရေ ၁၉၈,၁၉၃ ယောက်(၁၉၆၆)နေထိုင်လေသည်။

**ဟဲလဗတ်ငါး။** ။ကမ္ဘာတွင် ငါး အများအပြားရှိရာ ထိုငါးများအနက် ဟဲလဗတ်ငါးသည် အကြီးဆုံးနှင့် အရေးအကြီးဆုံး ငါးတမျိုး ဖြစ်လေသည်။ ထိုငါးမျိုးကို အမေရိကန် နိုင်ငံ ဆန်ဖရန်စစ္စကိုမြို့ မြောက်ဖက် နယူးယော့နှင့် ပြင်သစ်နိုင်ငံ မြောက်ပိုင်းရှိ ပင်လယ်များတွင် တွေ့နိုင်လေသည်။ ထိုငါး၏ မျက်စိများသည် ဦးခေါင်း၏ လက်ျာဖက်တွင် ရှိသည်။ ထိုလက်ျာဖက်၏ အရောင်မှာ အညိုရင့်ရောင် ဖြစ်၍ လက်ဝဲဖက်၏ အရောင်မှာ အဖြူရောင် ဖြစ်သည်။ ဖမ်းမိသမျှ ဟဲလဗတ် ငါးများအနက် ငါးမတို့၏

အနေးချိန်သည် ပေါင် ၃၀၀ မှ ၄၀၀ အထိရှိကြ၍ ငါး ထီးတို့၏ အလေးချိန်မှာမူ ပေါင်ငါးဆယ် ကျော်လွန်ခဲ လေသည်။

ဟဲလဗတ်ငါးများကို ဖမ်းရာတွင် ခိုင်ခံ့သည့် ငါးများ ချိတ်ကြီးများကို အသုံးပြုကြသည်။ ထိုငါးများချိတ်ကြီး များကို ကြိုးရှည်ရှည်ကြီးများတွင် တခုနှင့် တခု ပေအနည်း ငယ်ခန့်စီ ခွာချည်ပြီးလျှင် ငါးစာများကို တပ်၍ ပင်လယ် အောက်ခြေသို့ ချပေးကြသည်။ ဟဲလဗတ်ငါး၏ အနံ့ အရသာမှာ နှစ်သက်ဖွယ် ကောင်းလေသည်။ ထိုငါး၏ အသည်းဆီသည် ကော့ဒငါး၏ အသည်းဆီထက်ပင် ပို၍ ဗီတာမင် အေ ကြွယ်ဝသေးသည်။ ထိုငါး၏ အသည်းကို ဗီတာမင် ရရှိရေးအတွက် စီမံသောအခါ ဗီတာမင်ဒီကို အနည်းငယ် ထည့်ပေးလေ့ ရှိကြသည်။

ဟဲလဗတ်ငါးသည် များသောအားဖြင့် လေးပေမှငါးပေ အထိ ကြီးလေ့ရှိသော်လည်း ခုနစ်ပေကျော်အထိကြီးသော ဟဲလဗတ်ငါးများလည်း ရှိသေးသည်ဟု သိရလေသည်။ ထိုကဲ့သို့သော ငါးမျိုးကို ပေပေါင်း ၆၀၀ အထိ နက်ပြီးလျှင် ပင်လယ်ကမ်းခြေနှင့် အနည်းငယ် ဝေးကွာရာဒေသများတွင် တွေ့ရလေ့ရှိသည်ဟု ဆိုလေသည်။

အတ္တလန္တိတ်သမုဒ္ဒရာအတွင်းနေ ဟဲလဗတ်ငါးကို ပါဏဗေဒ အလိုအရ ဟစ်ပိုဂလောဆပ် ဟစ်ပိုဂလောဆပ် ဟု ခေါ်၍ ပစိဖိတ်သမုဒ္ဒရာအတွင်းနေ ဟဲလဗတ်ငါးကိုမူ ဟစ်ပို ဂလောဆပ် စတီနိုလက်ပစ်ဟု ခေါ်သည်။

**ဟဲသားပင်။** ။ဟဲသားပင် အမျိုးပေါင်းလေးရာမျှရှိရာ ယင်းတို့သည် များသောအားဖြင့် အာဖရိကတိုက်၌ မူလ ပေါက်ရောက်ကြသည်။ ဂရိတ်ဗြိတိန်နိုင်ငံရှိ မြေရိုင်းများ တွင် ပေါက်ရောက်လေ့ရှိသော အမြဲစိမ်း ချုံပင်မျိုး ဖြစ် သည်။ ဥရောပတိုက်ရှိ အချို့ အစိတ်အပိုင်းများနှင့် အာ ဖရိကတိုက်တို့၌လည်း ပေါက်ရောက်သေးသည်။

ထို အပင်မျိုး၏ ပင်စည်သည် တို၍ မဲ့ပြာရောင် ရှိပြီး လျှင် အမွေးများ ရှိလေသည်။ ထို အပင်၏ အကိုင်းများ သည် တံမြက်စည်းနှင့် တူပြီးလျှင် အရွက်များမှာ အပ်များ နှင့် တူကြသည်။ ထိုအပင်၏ ပန်းရောင် အပွင့်သေး ကလေးများသည် ခေါင်းလောင်းငယ်များနှင့် တူပြီးလျှင် အခိုင်ရှည်များ အဖြစ်နှင့် ပွင့်ကြလေသည်။

ဥရောပတိုက် အချို့ ဒေသများ၌ ထို ဟဲသားပင်များ ပေါက်ရောက်လျက်ရှိရာ ထိုအပင်များကို တံမြက်စည်းများ



ကနေဒါနိုင်ငံ နိုဗာစကိုးရှားပြည်နယ်၏မြို့တော် ဟဲလဖက်မြို့


အဲရစ်ကေဆီအီး မျိုးရင်းဝင် ဟဲသားပင်

ရက္ခဗေဒ အမည်အားဖြင့် ကယ်လူနာ ဗာလဂါရစ် ဟု ခေါ်သည်။ အချို့ အပင်များသည် လက်မ အနည်းငယ်မျှသာ မြင့်ကြသော်လည်း အချို့ အပင်များကမူ သုံးပေ သို့မဟုတ် သုံးပေမကပင် မြင့်တတ်ကြလေသည်။

**ဟော့ပင်။** ။ဟော့ပင်၏ အသီးများကို ဖြစ်ရည် ချက်ရာတွင် ထည့်၍ အသုံးပြုကြသည်။ ထိုအခါတွင် ဖြစ်ရည်သည် အနံ့ အရသာနှင့် ပြည့်စုံလာလေသည်။

ဟော့ပင်သည် နွယ်ပင်ဖြစ်၍ ဗယ်မှ ညာသို့ လိမ်၍ သွားလေ့ရှိသည်။ ထို့ပြင် ဟော့ပင်သည် နှစ်တိုင်း ပွင့်လေသည်။ ထိုအပင်ကို နှစ်ကြာခံပင်ဟုသတ်မှတ်ကြသည်။

ဟော့ပင်များကိုစိုက်ပျိုးသောအခါ ရှေးဦးစွာ အသား များသည့် အမြစ်များကို ရွေးချယ်ရသည်။ထိုနောက် ခြောက်လက်မမှ ရှစ်လက်မအထိ အရှည် ဖြတ်၍ စိုက်ပျိုးလေ့ရှိကြသည်။

ဟော့ပင်များမှ ကတော့ပုံ ကဲ့သို့သော အပွင့်များ အခိုင်လိုက် ပွင့်လာပြီးနောက် အစိမ်းရောင်မှ အဝါရောင် သန်းလာသော အခါတွင် ဟော့ပင်စိုက်ပျိုးသူများသည် ဟော့သီး ခူးသူများကို ဟော့ပင်များ စိုက်ပျိုးထားရာ ခြံသို့ ပို့ပေးကြရလေသည်။ အဘယ်ကြောင့်ဆိုသော် ဟော့သီးများကို အချိန်တော်ခူးယူနိုင်မှ ယင်းတို့တွင်ပါရှိသော လူပူလင်ခေါ် ဆေးဖက်ဝင်သည့် အစေးကို ကောင်းစွာရရှိ၍ ဖြစ်ချက်ရာ၌လည်း အရေးပါခြင်းကြောင့် ဖြစ်သည်။

ရှေးအခါက အိပ်မပျော်သူများကို ဟော့သီးများ သွတ်ထားသည့် ခေါင်းအုံးနှင့် အိပ်စေခြင်းဖြင့် အိပ်ပျော်စေနိုင် ခဲ့လေသည်။ ဟော့သီးများတွင် အခါးဓာတ်ပါရှိသဖြင့် ထိုအသီးကို အစာကြေရင်ချောင်ဆေး ဖော်စပ်ရာတွင် အသုံးပြုလေ့ ရှိကြလေသည်။

ဟော့ပင်သည် နှစ်တိုင်း ၁၅ ပေ မှ ပေ ၂၀ အထိ ရှည်၍ လိမ်နေသော ပင်စည် အမြောက် အမြားကို

နှင့် ဝက်မှင်ဘီးများ ပြုလုပ်ကြလေသည်။ ပြင်သစ်နိုင်ငံတွင် ပေါက်ရောက်သော ဟဲသားပင်များ၏ အမြစ်များကို ဆေးတံများ ပြုလုပ်ရန် အသုံးပြုကြသည်။ စကော့တလန်ပြည်တွင် အချို့ ဆင်းရဲသားများသည် သူတို့၏ နေအိမ်များကို မိုးရာတွင် ဟဲသားပင်မှ ရရှိသည့် ပစ္စည်းများကို အသုံးပြုကြသည်။ အချို့ နေရာများတွင် ဟဲသားပင်ကို ကျိုချက်ပြီးနောက် ရရှိသောအရည်ဖြင့် သားရေများကို နယ်လေ့ရှိကြသည်။ အိမ်မွေး တိရစ္ဆာန်များကို ဟဲသားပင်၏ အညွှာက်များကို ကျွေးမွေး ကြသည်။ ဟဲသားပင်၏ အစေ့များကို ငှက်များကလည်း ကြိုက်နှစ်သက်ကြသည်။

ဟဲသားပင်သည် အဲရစ်ကေဆီအီး မျိုးစဉ်၌ ပါဝင်၍



ဖြစ်ရည်ချက်ရာဘွင် အသုံးပြုရသော ဟော့သီးများဆွတ်ခူးနေစဉ်

ဖြစ်ပေါ်စေသည်။ ဟော့ပင်၌ ရွက်ခြားလက် ညောင်ရွက်ပုံအရွက်များ ရှိသည်။ အပင်တိုင်းသည် အဖိုသော်၎င်း၊ အမသော်၎င်း ဖြစ်နိုင်ပေသည်။ အဖိုနှင့် အမတို့၏အပွင့်များသည် တမျိုးနှင့်တမျိုး မတူကြချေ။ အဖိုပွင့်များသည် သေးငယ်ပြီးလျှင် အကိုင်းများတွင် အခိုင်လိုက်ပွင့်ကြလေသည်။ အရောင်မှာ အစိမ်းရောင်ဖြစ်သည်။ အမပင်မှ အပွင့်များကမူ ပွင့်ညှာမဲ့ ရေစီမှိုများအဖြစ် ပွင့်ကြပြီးလျှင် ယင်းတို့အား အကြေးခွံများနှင့် ဖုံးအုပ်လျက်ရှိကြသဖြင့် ကြောင်မြီးများကဲ့သို့ ဖြစ်နေကြလေသည်။ ဟော့နွယ်သည် အပေါ်ဖက်သို့ တက်လေ့ရှိသည်။ မပုမပြင်ပဲထားလျှင် ခြံစည်းရိုးအဖြစ် စိုက်ထားလေ့ရှိသော အပင်များကို နွယ်၍ တက်လေ့ရှိကြသည်။ စီးပွားရေးအဖြစ် စိုက်ပျိုးသောအခါတွင် ဟော့ပင်များကို စိုက်ပျိုးသောအခင်း၌ ဟော့ပင်များ နွယ်၍တက်နိုင်ရန် အချို့နေရာများတွင် ဆဲ့လေးပေမှ ဆဲ့ရှစ်ပေအထိ မြင့်သော တိုင်များ စိုက်ထူထားလေ့ ရှိကြသည်။

ဟော့သီးများကို ဩဂုတ်လနောက်ပိုင်းနှင့် စက်တင်ဘာလ အလယ်လောက်တွင် ဆွတ်ခူးလေ့ ရှိကြသည်။ ဟော့သီးများ မှည့်လျှင်မှည့်ခြင်း ခူးကြရခြင်းမှာ မှည့်ပြီးနောက် မခူးပဲထားလျှင် လျှင်မြန်စွာ ပုပ်သွားတတ်ခြင်းကြောင့် ဖြစ်သည်။

ဥရောပတိုက်ရှိ စီးပွားရေးအတွက် ဟော့ပင်များကို စိုက်ပျိုးလေ့ရှိကြသော နိုင်ငံများတွင် အင်္ဂလန်၊ ပြင်သစ်၊ ဂျာမနီနိုင်ငံများ ပါဝင်ပြီးလျှင် အမေရိကန်ပြည်ထောင်စုအတွင်း၌မူ ကာလီဖိုးနီးယား၊ အိုရီဂွန်၊ ဝါရှင်တန်နှင့် နယူးယော့ပြည်နယ်များ ပါဝင်လေသည်။ ဂျပန်နိုင်ငံတွင်မူ ဟော့ပင်ကို အလှအပအတွက် စိုက်ပျိုးကြလေသည်။

ဟော့ပင်သည် နက်တဲမျိုးရင်းတွင် ပါဝင်ပြီးလျှင် ရုက္ခဗေဒ အလိုအရ ဟူမူလပ် လူပူလပ် ဟု ခေါ်လေသည်။

**ဟော်ကီကစားခြင်း။** ။ဟော်ကီ ကစားခြင်းသည် မည်သည့်နိုင်ငံတွင် အစပြုခဲ့သည်ဟူ၍ အတိအကျ မသိရချေ။ သို့ရာတွင် ယခုခေတ် ဟော်ကီကစားပုံသည် ရှေးခေတ် ဂရိတို့ကစားခဲ့သော ကစားနည်းတမျိုးနှင့် တူကြောင်းကိုကား သိနိုင်သည်။ ဟော်ကီကစားခြင်းသည် ပြင်သစ်နိုင်ငံတွင် ၁၄ ရာစုနှစ်အတွင်းက ထွန်းကားခဲ့၍ နောင်အခါ အင်္ဂလန်နိုင်ငံသို့ ရောက်ရှိသွားသည်။ အင်္ဂလန်နိုင်ငံတွင် ထိုကစားနည်းသည် တိုးတက်လာသည်။ ဟော်ကီကဲ့သို့သော ကစားနည်းမျိုးကို အိုင်ယာလန် (အယ်ရာ) နိုင်ငံတွင် "ဟားလင်း" ဟူ၍၎င်း၊ စကော့တလန်နိုင်ငံတွင် "ရှင်တီ"ဟူ၍၎င်း၊ ဝေလနယ်တွင် "ဗင်ဒီ" ဟူ၍၎င်း အမည် အသီးအသီးဖြင့် ခေါ်ကြသည်။ မြောက်အမေရိကတိုက်တွင် ဟော်ကီ ကစားခြင်းကို "ကွင်းဟော်ကီ" ဟု ခေါ်၍၊ "ဟော်ကီ" ဟူသော စကား သက်သက်သည် ရေခဲဟော်ကီကို ဆိုလိုသည်။ မူလက ဟော်ကီကစားခြင်းသည် အလွန်ကြမ်းသော ကစားနည်းမျိုးဖြစ်သောကြောင့် လူအများတို့က အားမပေးခဲ့ကြချေ။ ယခုအခါ၌မူကား ဟော်ကီကစားခြင်းနှင့် သက်ဆိုင်သော နည်းဥပဒေများကို သတ်မှတ်ထားပြီးဖြစ်၍ အာရှတိုက်၊ ဥရောပတိုက်နှင့် အမေရိကတိုက်တို့တွင် ထိုကစားနည်းကို လေ့လာကစားကြသူဦးရေ များပြားလာပေသည်။

ဟော်ကီဟူသော အမည်သည် ပြင်သစ်ဘာသာစကားဖြင့် "ဟိုကေး" ခေါ် သိုးကျောင်းသမား၏တုတ်ကောက်ဟု အနက်ထွက်သည့် စကားလုံးမှ ရသည်ဟူ၍ ယူဆကြသည်။ ဟော်ကီကစားရာ၌ တုတ်ကောက်ဖြင့် ဘောလုံးကို ရိုက်၍ ကစားရသည်။ အစအဦးတွင် ထိုကစားနည်းကို ယောကျ်ားများကသာ ကစားခဲ့ကြသော်လည်း နောင်အခါ၌ မိန်းမများကလည်း ကစားကြသည်။ ယောကျ်ားနှင့် မိန်းမ တွဲ၍ ကစားသော ဟော်ကီပွဲများကိုလည်း တီထွင်ခဲ့ကြသည်။ ၁၇၇၅ ခုနှစ်တွင် အင်္ဂလန်နိုင်ငံ၌ ယောကျ်ားဟော်ကီအသင်းကို တည်ထောင်ပြီးနောက်၊ ရှစ်နှစ်ကြာသောအခါ ဝင်ဗယ်လဒန် ကလပ်အသင်းက ဟော်ကီကစားခြင်း နည်းဥပဒေများကို ရေးဆွဲခဲ့သည်။ ၁၉၀၁ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စုသို့ ထိုကစားနည်း ရောက်ရှိသွားသည်။ ထိုအခါမှစ၍ ဟော်ကီ

ကစားခြင်းသည် ပြည်ထောင်အချင်းချင်း ယှဉ်ပြိုင်ကစားရသောကစားနည်းအဖြစ်သို့ တိုးတက်ခဲ့လေသည်။

ဘောလုံးကစားခြင်း နည်းဥပဒေများကို သဘောပေါက် နားလည်သူ တဦးသည် ဟော်ကီကစားခြင်း နည်းဥပဒေများကို နားလည်လွယ်မည်ဖြစ်သည်။ ဟော်ကီကစားကွင်းသည် အလျားကိုက် ၁၀၀၊ အနံ ၅၅ ကိုက်မှ ကိုက် ၆၀ အတွင်းရှိသည်။ အလျားမျဉ်းကြောင်းကို ဘေးစည်းဟူ၍၎င်း၊ အနံမျဉ်းကြောင်းကို ဂိုးစည်းဟူ၍၎င်း ခေါ်သည်။ ကွင်းတဖက်တချက်တွင် ဘေးစည်းအတွင်း ခုနစ်ကိုက်အကွာ၌ မျဉ်းပြိုင်မျဉ်းကြောင်း တခုစီရှိသည်။ ဂိုးစည်းနှစ်ခုအလယ်တွင် ၁၂ ပေစီ ကျယ်သော ဂိုးပေါက်များရှိသည်။ ဂိုးတိုင်အမြင့် ခုနစ်ပေရှိ၍ တိုင်ထိပ်နှစ်ခုကို တန်းဖြင့် ချုပ်ထားသည်။ ဂိုးပေါက်ရှေ့တည့်တည့် ၁၆ ကိုက် အကွာတွင် အလျားလေးကိုက်ရှိသော ဂိုးစည်းနှင့် မျဉ်းပြိုင်မျဉ်းကြောင်းတခု ရှိသည်။ ဂိုးတိုင်တခုစီကို ဗဟိုပြု၍ ထိုမျဉ်းအစွန်းနှစ်ဖက်မှ စက်ဝိုင်းစိတ်မျဉ်းကြောင်းများကို ဂိုးစည်းနှင့် ဆုံမိသည်အထိ ဆက်၍ဆွဲထားသည်။ ထိုမျဉ်းများနှင့် ဂိုးစည်းအတွင်းရှိ စက်ဝိုင်းခြမ်းနေရာကွက်သည် ဂိုးပေါက်အတွင်းသို့ ဟော်ကီဘောလုံးကို ရိုက်သွင်းနိုင်သော နေရာဖြစ်သည်။ ကစားကွင်းအတွင်းရှိ အခြားသောနေရာမှ ဘောလုံးကို ဂိုးအတွင်းသို့ ရိုက်မသွင်းနိုင်ချေ။ ယင်းကဲ့သို့ ဂိုးသွင်းစက်ဝိုင်း နေရာဟူ၍ သတ်မှတ်ထားခြင်းသည် ဟော်ကီကစားခြင်းတွင် ထူးခြားသည်။ ပါဝင်ကစားသူများအတွက် အထိအခိုက်နည်းရအောင် စီမံခြင်းပင် ဖြစ်သည်။

ဟော်ကီကစားပွဲတွင် တဖက်လျှင် ၁၁ ယောက်ထက်မများသော အသင်းနှစ်သင်းက ယှဉ်ပြိုင်ကြရသည်။ ကစားသူများကို ဂိုးစောင့်တယောက်၊ နောက်တန်းနောက်ခံလူ နှစ်ယောက်၊ အလယ်တန်းနောက်ခံလူ သုံးယောက်၊ ရှေ့တန်းငါးယောက် စသည်ဖြင့် နေရာသတ်မှတ်လေ့ရှိသည်။ ကစားသူတိုင်းတွင် အဖျားကောက်သော ဟော်ကီရိုက်တံ တခုစီရှိ၍. ထိုရိုက်တံဖြင့် တဖက်အသင်း၏ ဂိုးပေါက်တွင်းသို့ ဘောလုံးကို ဝင်အောင်ရိုက်သွင်းရသည်။ ရိုက်တံလက်ကိုင်သည် များသောအားဖြင့် နှစ်ပေခန့်ရှည်၍ အဖျားကောက်သည် တပေရှိ၏။ ရိုက်တံသည် အလေးချိန် ၂၈ အောင်စထက် မပိုစေရ။ ရိုက်တံမျက်နှာပြင်သည် ပြား၍ အထက်ပိုင်းတွင် ထိခိုက်မိစေမည့်အစွန်းအစများ မရှိရချေ။ ဟော်ကီဘောလုံးသည် ကရစ်ကက်ဘောလုံးမျိုးဖြစ်၍ အဖြူရောင်သားရေဖြင့် ဖုံးအုပ်ထားသည်။ တခါတရံ အခေါင်းပိတ် ရော်ဗာဘောလုံးကိုလည်း အသုံးပြုကြသည်။ ဘောလုံးအဝန်းသည် အကြီးဆုံး ၉–¼ လက်မရှိရ၍ အလေးချိန် ခြောက်အောင်စခန့် ရှိသည်။ ပါဝင်ကစားသူများတွင် အထူးသဖြင့် ဂိုးစောင့်သည် အထိအခိုက်ခံရလွယ်သောကြောင့် ခြေထောက်များ၌ ထူထဲသော အကာအကွယ်များကို ဝတ်ဆင်ထားလေ့ရှိသည်။

ဟော်ကီကစားပွဲတပွဲတွင် ကစားချိန်သည် ပဌမပိုင်း



ဟော်ကီကစားနည်းကို အမျိုးသားများသာမက အမျိုးသမီးများလည်း ကစားနိုင်သည်။

အတွက် ၃၅ မိနစ်နှင့် ဒုတိယပိုင်းအတွက် ၃၅ မိနစ်ဖြစ်၍ ကြား၌ ငါးမိနစ် အနားပေးရသည်။ ပွဲကိုစရာ၌ ရှေ့တန်း အလယ်လူနှစ်ဦးတို့သည် ကွင်းလယ်တွင် ဘေးစည်းကို မျက်နှာမူ၍ မိမိ၏ရိုက်တံဖြင့် မြေကြီးကိုတချက်၊ တဖက်သား၏ ရိုက်တံကို တချက်ဖြင့် အလှည့်ကျ သုံးကြိမ်သုံးခါ ပြုလုပ်ပြီးလျှင်ပြီးခြင်း ဘောလုံးကို စတင်ရိုက်နိုင်သည်။ ထိုကဲ့သို့ ပြုလုပ်ခြင်းကို "ဗူလီ" ဟု ခေါ်သည်။ ဘောလုံးကိုရိုက်သည့်အခါ ရိုက်တံကို ပခုံးအထက်သို့ ကျော်လွန်အောင် မမြှောက်ရချေ။ ဘောလုံးကို အောက်မှခုတ်ရိုက်ခြင်းမပြုရ၊ လက်ဖြင့် ဘောလုံးကို တားဆီးနိုင်သော်လည်း ကိုင်မထားရ၊ မပစ်ရ၊ ခြေဖြင့်မကန်ရ၊ ချက်ခြင်းလွှတ်ချရမည်။ ဂိုးစောင့်ကမူကား မိမိ၏ဂိုးစည်း အတွင်း၌ ဘောလုံးကို ခြေဖြင့်ကန်ထုတ်နိုင်သည့်အပြင်၊ မည်သည့်ကိုယ်အင်္ဂါ အစိတ်အပိုင်းနှင့်မဆို ဘောလုံးကို တားဆီးနိုင်သည်။ ကစားသူများသည် တဖက်အသင်းသားကိုသော်၎င်း၊ ထိုသူ၏ရိုက်တံကိုသော်၎င်း မိမိ၏ ရိုက်တံဖြင့် ချိတ်ဆွဲခြင်း၊ တားဆီးခြင်း မပြုရ။ ကြမ်းတမ်းစွာကစားခြင်းကိုလည်း ခွင့်မပြုချေ။ ထိုနည်းဥပဒေတခုခုကို ကျူးလွန်ခဲ့သော် ဒိုင်လူကြီးက ကျူးလွန်သည့်ဖက်သို့ ဘောလုံးကို အလွတ်ရိုက်ပို့စေရမည်။ ဂိုးသွင်းစက်ဝိုင်းအတွင်း၌ ဖြစ်မှုကျူးလွန်ခဲ့သော် "ပင်နယ်လတီကော်နာ"၊ သို့မဟုတ် "ပင်နယ်လတီဗူလီ" ကို တဖက်အသင်းသို့ ပေးရမည်။ "ပင်နယ်လတီကော်နာ" တွင် ဘောလုံးကို ဂိုးတိုင်မှ ၁၀ ကိုက် ကွာဝေးသော ဂိုးစည်းပေါ်ရှိ နေရာက ရိုက်ပို့ရသည်။ ထိုအချိန်၌ ကာကွယ်သည့်ဖက်မှ ကစားသူတို့သည် မိမိတို့၏ ဂိုးစည်းအနောက်တွင်၎င်း၊ တဖက်အသင်းမှ ကစားသူတို့သည် ဂိုးသွင်းစည်းဝိုင်း အပြင်တွင်၎င်း ရှိနေကြရသည်။ ဗင်နယ်လတီဗူလီကို ဂိုးစည်းအလယ်မှ အရှေ့ငါးကိုက်အကွာနေရာတွင် ပြုလုပ်ရ၍ နှစ်ဖက်အသင်းမှ ကျန်ကစားသူ အားလုံးတို့သည် ၂၅ ကိုက် စည်းအပြင်၌ ရှိနေကြရသည်။

တဦးတယောက်ကြောင့် ဘောလုံးသည် ဘေးစည်းအပြင်သို့ ထွက်သွားလျှင် တဖက်အသင်းသားတယောက်က ဘောလုံးကို ကွင်းထဲသို့ လက်ဖြင့် လှိမ့်သွင်းပေးရသည်။ ထိုအချိန်တွင် ကစားသူတို့သည် ဘေးစည်းမှ ခုနစ်ကိုက်ကွာသော မျဉ်းပြိုင်စည်းအတွင်း၌ ရှိနေကြရသည်။

ကစားသူတဦးတယောက်သည် မိမိဖက်ဆိုင်ရာ ကွင်းတဝက်အတွင်း၌ ရှိနေလျှင် လူကျွံခြင်း မဖြစ်နိုင်ချေ။ မိမိနှင့် ဂိုးစည်းစပ်ကြားတွင် တဖက်အသင်းမှ ကစားသူ သုံးယောက် ရှိနေလျှင်သော်၎င်း၊ ဘောလုံးကို ရိုက်သူ၊ သို့မဟုတ် ဘေးစည်းမှ လှိမ့်သွင်းသူအနောက်တွင် ရှိနေလျှင်သော်၎င်း လူကျွံခြင်း မဖြစ်နိုင်ချေ။ ဟော်ကီကစားခြင်း၌ ဘောလုံးကစားခြင်းမှာကဲ့သို့ ဂိုးအများဆုံးသွင်းနိုင်သည့် အသင်းက အနိုင်ရရှိလေသည်။

ယခုအခါ ဟော်ကီကစားခြင်းသည် နိုင်ငံအချင်းချင်း ယှဉ်ပြိုင်ကစားရသော ကစားနည်း အဖြစ်သို့ တိုးတက်လာခဲ့ရာ၊ ကမ္ဘာ့အိုလင်းပစ်ပြေးခုန်ကစားပွဲကြီးတွင် နိုင်ငံအသီးအသီးမှ ဟော်ကီသင်းများ ပါဝင် ယှဉ်ပြိုင်ကြရလေသည်။ ၁၉၆၀ ပြည့်နှစ် ရောမကမ္ဘာ့အိုလင်းပစ်ကစားပွဲတွင် ပါကစ္စတန် ဟော်ကီအသင်းက ဗိုလ်စွဲခဲ့သည်။ သို့သော် ၁၉၆၄ ခုနှစ် တိုကျိုကမ္ဘာ့အိုလင်းပစ် ကစားပွဲတွင်မူ ၁၉၂၈ ခုနှစ် အိုလင်းပစ်ကစားပွဲမှ အစပြု၍ အိုလင်းပစ်ကစားပွဲတိုင်းတွင် ဗိုလ်စွဲလာခဲ့သော အိန္ဒိယဟော်ကီအသင်းကပင် ပြန်လည်ဗိုလ်စွဲခဲ့သည်။ ၁၉၆၈ ခုနှစ် မက္ကဆီကို ကမ္ဘာ့အိုလင်းပစ် ကစားပွဲတွင် ပါကစ္စတန်ဟော်ကီအသင်းက တဖန် ဗိုလ်စွဲခဲ့ပြန်၍ ၁၉၇၂ ခုနှစ် မျူးနစ်ကမ္ဘာ့အိုလင်းပစ် ကစားပွဲတွင် ဥရောပ အသင်းများအနက် ပဌမဆုံးအကြိမ် အဖြစ် အနောက်ဂျာမနီအသင်းက ဗိုလ်စွဲခဲ့လေသည်။

**ရေခဲဟော်ကီ**။ ။ရေခဲဟော်ကီသည် ရေခဲပြင်ပေါ်တွင် ခြေ၌ စကိတ်စီး၍ ကစားရသော ကစားနည်းဖြစ်သည်။ ဟော်ကီကစားခြင်းနှင့် ဆင်ဆင်တူသော်လည်း ကစားခြင်း နည်းဥပဒေများ၌ အနည်းငယ် ကွဲပြားသည်။ ကနေဒါနိုင်ငံတွင် ရေခဲဟော်ကီကစားခြင်းသည် ဆောင်းရာသီ အမျိုးသားကစားနည်းအဖြစ် အထူးထင်ရှားသည်။ ၂၀ ရာစုနှစ်ဦးပိုင်းမှစ၍ အမေရိကန်ပြည်ထောင်စု၊ အင်္ဂလန်နိုင်ငံနှင့် ဥရောပတိုက်တို့တွင် ရေခဲဟော်ကီကစားခြင်းသည် ခေတ်စားလာ၏။ ထိုနောက် နိုင်ငံအချင်းချင်း ယှဉ်ပြိုင်ရသော ကစားနည်းအဖြစ်သို့ တိုးတက်လာခဲ့သည့် အပြင် ကြေးစား ရေခဲ ဟော်ကီအသင်းများပင် ပေါ်ထွက်လာသည်။ ကမ္ဘာ့အိုလင်းပစ် ဆောင်းရာသီကစားပွဲများ၌လည်း နိုင်ငံအချင်းချင်း ယှဉ်ပြိုင်ကစားခဲ့ကြရာ၊ ၁၉၇၂ ခုနှစ်တွင် ဆိုဗီယက်ပြည်ထောင်စုက ဗိုလ်စွဲခဲ့သည်။

ရေခဲဟော်ကီကစားကွင်း ရေခဲပြင်သည် အလျားပေ ၂၀၀ နှင့် အနံ ၈၅ ပေခန့် ရှိ၍ သုံးပိုင်း အညီအမျှပိုင်းထားသည်။ ဂိုးပေါက်သည် အကျယ်ခြောက်ပေနှင့် အမြင့်လေးပေမျှသာ ရှိသည်။ ကစားသူတို့သည် အမြန်စီးစကိတ်ထက် အောက်ခံတိုသော စကိတ်မျိုးကိုစီး၍ "ပတ်" ဟု ခေါ်သော ရော်ဘာပြားအဝိုင်းကို အဖျားကောက် ရိုက်တံဖြင့် ရိုက်၍ ကစားရသည်။ ရေခဲဟော်ကီသည် အလွန်လျင်မြန်သော ကစားနည်းမျိုးဖြစ်၍ အထိအခိုက် ရလွယ်သောကြောင့် ပါဝင်ကစားကြသူများသည် ထူထဲသော အကာအကွယ်များကို ဝတ်ဆင်ထားလေ့ရှိသည်။ အထူးသဖြင့် ဂိုးစောင့်သည် ကိုယ်နှင့် ခြေလက်တို့တွင်

ထူထဲစွာ ကာကွယ်ထားရသည်။ ရိုက်တံသည် ၄၆ လက်မ ခန့်ရှည်၍ အဖျားကောက်၏။ "ပတ်" ရော်ဗာပြားအဝိုင်းသည် အချင်းသုံးလက်မ၊ အထူ တလက်မ ရှိသည်။

အသင်းတသင်းတွင် ခြောက်ယောက်စီ ပါဝင်ကစားရာ၌ ဂိုးစောင့်တယောက်၊ နောက်ခံလူ နှစ်ယောက်၊ ရှေ့တန်းတွင် အလယ်လူတယောက်နှင့် ယာဖက်၊ ဝဲဖက်က တယောက်စီတို့ ဖြစ်ကြသည်။ ဒိုင်လူကြီးက နှစ်ဖက်သောအသင်းမှ အလယ်လူ နှစ်ဦးအကြားသို့ "ပတ်" ကိုချပေး၍ ကစားပွဲကို စသည်။ ကစားပွဲတပွဲတွင် တချီလျှင် မိနစ် ၂၀ ကျ သုံးချီကစားရ၍ အကြား၌ ၁၀ မိနစ် အနားပေးရသည်။ တဖက်အသင်း၏ ဂိုးပေါက်ထဲသို့ "ပတ်" ကို အကြိမ်အများဆုံး ရိုက်သွင်းနိုင်သော အသင်းက အနိုင်ရသည်။ ဒိုင်လူကြီးက ပြစ်မှု အကြီးအသေး အလျောက် ကျူးလွန်သူကို ပွဲမှ နှစ်မိနစ်၊ သို့မဟုတ် ငါးမိနစ်မျှအထိ ထုတ်ပယ်ထားနိုင်သည်။ ထိုအတောအတွင်း၌ လူစားမသွင်းနိုင်ချေ။

သာမန်စကိတ်စီးတတ်ရုံမျှဖြင့် ရေခဲဟော်ကီပွဲတွင်ပါဝင်၍ မကစားနိုင်သေးချေ။ ရေခဲပြင်ပေါ်တွင် ကိုယ်အရှိန်ကို ကောင်းစွာထိန်းနိုင်၍ ရိုက်တံကိုလည်း ကျင်လည်စွာအသုံးချနိုင်ရလေသည်။ ရေခဲဟော်ကီကို များသောအားဖြင့် ယောကျ်ားများကသာ ကစားလေ့ရှိ၏။ ကြေးစားအသင်းများသည် ကစားရုံအတွင်း၌ ရေခဲပြင်အတုပြုလုပ်၍ အချင်းချင်းယှဉ်ပြိုင်ကစားလေ့ ရှိကြသည်။

**ဟော်မုန်း။** ။ဟော်မုန်းသည် ခန္ဓာကိုယ်၏ အချို့အင်္ဂါများမှ ဖြစ်လာကြသော ဓာတ်ပစ္စည်းများ ဖြစ်၍ ခန္ဓာကိုယ်၏ အခြား အစိတ်အပိုင်းများကို ပြုပြင်ပေးကြသည်။ ခန္ဓာကိုယ်၏ အချို့ အင်္ဂါများမှ စစ်ထွက်လာကြသော ဟော်မုန်းများသည် ခန္ဓာကိုယ်အတွင်း လှည့်လည်ပြီးလျှင် ခန္ဓာကိုယ်၏ လှုပ်ရှားတက်ကြွမှုများကို ပြုပြင်ပေးကာ ပူးပေါင်း၍ လုပ်ကိုင်စေသည်။ အချို့ ဟော်မုန်းများသည် အထူး အင်္ဂါများကို အရေးကြီးသော အကျိုးသက်ရောက်မှုများကို ဖြစ်စေ၍ ကျန် ဟော်မုန်းများကမူ ခန္ဓာကိုယ်တခုလုံးကို အကျိုးသက်ရောက် စေသည်။

အမှန်မှာ ဟော်မုန်းသည် အင်္ဂါတခုကို ပို၍ လှုပ်ရှားတက်ကြွစေသော ပစ္စည်းတမျိုး ဖြစ်လေသည်။ လှုပ်ရှားတက်ကြွမှုကို နှေးကွေးစေသော အတွင်းစစ်ထွက်ရည်ကိုမူ ကယ်လုန်ဟု ခေါ်သည်။

အင်ဒိုကရင်းခေါ် ပြွန်မဲ့ဂလင်းများမှ စစ်ထွက်လာကြသော ဟော်မုန်းများကို လူသိများသည်။ ထို ပြွန်မဲ့ဂလင်းများမှာ ဦးနှောက် အောက်အတက်၊ ရှေ့ ဦးနှောက်အထက်တက်၊ သိုင်းရွိုက်(ဒိုင်းပုံ)၊ ပါရာသိုင်းရွိုက် (ဒိုင်းမှီ)၊ သိုင်းမတ်၊ ကျောက်ကပ်စီး၊ လင်ဂါဟန် ကျွန်းကွက်များနှင့် လိင်အင်္ဂါ(ဥအိမ်နှင့်ဝှေး)ဂလင်းများ ဖြစ်သည်။ ထိုဂလင်းများမှ ဟော်မုန်းများက ရုပ်ဖြစ်ပျက်မှုများ၊ ကြီးထွားမှုများ၊ ယောကျ်ားနှင့် မိန်းမတို့၏ ကွဲပြားမှုများနှင့် မျိုးပွားစေမှုများကို ထိန်းသိမ်းပေးကြလေသည်။

အင်ဒိုကရင်းများသည် တံထွေး၊ သို့မဟုတ် ချွေးဂလင်းများနှင့် မတူပဲ ယင်းတို့၌ ပြွန်များ မရှိကြချေ။ ယင်းတို့က ယင်းတို့၏ စစ်ထွက်ရည်များကို သွေး၊ သို့မဟုတ် သွေးဖြူများ အတွင်းသို့ တိုက်ရိုက် ရောက်ရှိသွားစေကြသည်။ ထိုသွေး၊ သို့မဟုတ် သွေးဖြူများမှ တဖန် ဟော်မုန်းများ (စစ်ထွက်ရည်)ကို ခန္ဓာကိုယ်အတွင်းသို့ ပြန့်နှံ့သွားစေလေသည်။

ဦးနှောက် အောက်အတက်က ဟော်မုန်းအမျိုးပေါင်း ခြောက်ခု၊ သို့မဟုတ် ထိုထက်မကကို ထုတ်ပေးသည်ဟု ယူဆကြ၍ ကျောက်ကပ်စီးနှင့် လိင်အင်္ဂါ (ဥအိမ်နှင့် ဝှေး) များကမူ အနည်းဆုံး နှစ်မျိုးစီ စစ်ထွက်ပေးသည်ဟု ယူဆကြသည်။ သိုင်းရွိုက်နှင့် ပါရာ သိုင်းရွိုက်သာမက လင်ဂါဟန် ကျွန်းကွက်များကမူ ဟော်မုန်းတမျိုးတည်းစီကို စစ်ထွက်ပေးသည်ဟု ယူဆကြလေသည်။

အင်္ဂါတခုခုက ဟော်မုန်း နည်းလွန်းစွာ၊ သို့မဟုတ် များလွန်းစွာ စစ်ထွက်ပေးလျှင် ခန္ဓာကိုယ်၏ လှုပ်ရှားတက်ကြွမှုသည် မှန်မှန်ကန်ကန် အမှုကို မဆောင်ရွက်နိုင်တော့ချေ။ ထိုအခါတွင် လူသည် နေမကောင်း ဖြစ်လာပြီးလျှင် ခန္ဓာကိုယ်၏ ကြီးထွားမှုသည်လည်း မူမမှန် ဖြစ်လာလေတော့သည်။ စစ်ထွက်လာသောဟော်မုန်း နည်းလွန်းလျှင် ဟိုင်ပိုဖန်ရှင်း ဖြစ်သည်ဟု ဆို၍ များလွန်းသောအခါတွင်မူ ဟိုင်ပါဖန်ရှင်း ဖြစ်သည်ဟု ဆိုကြသည်။

ဟိုင်ပိုဖန်ရှင်းဖြစ်သောအခါ ကုသသည့် နည်းအမျိုးမျိုး ရှိရာ တနည်းမှာ အခြားလူ၏ ခန္ဓာကိုယ်မှ ဖြစ်စေ၊ တိရစ္ဆာန် တမျိုးမျိုးမှ ဖြစ်စေ တစ်ရှူးကို ယူပြီးလျှင် ကူးဆက်ပေးသည့် နည်းဖြစ်သည်။ အခြား တနည်းမှာ တနေရာရာမှ ရရှိသော ဟော်မုန်းကို ထည့်ပေးခြင်းဖြစ်၍ ထိုနည်းကို အစားထည့်ပေး၍ ကုခြင်း၊ သို့မဟုတ် အင်္ဂါရသကုထုံးနည်းဟု ခေါ်သည်။ ဟော်မုန်းကို တိရစ္ဆာန်၏ ဂလင်းများမှ ပြုပြင်၍ သော်၎င်း၊ သို့မဟုတ် ဂလင်းများမှ ပြုလုပ်ယူသည့် ဩဇာများမှသော်၎င်း လုပ်ယူနိုင်လေသည်။ ဓာတုဗေဒ ပညာရှင်များကမူ ဓာတ်စမ်းခန်း အတွင်း၌ သိုင်းရော့ဆင်၊ အက်ပီနက်ဖရင်နှင့် အချို့ လိင်နှင့်ဆိုင်သော ဟော်မုန်းများကို ဖန်တီးယူကြသည်။ သို့ဖြင့် ဟော်မုန်း နည်းသော လူနာများသည် ဟော်မုန်း သန့်သန့်များကိုရယူနိုင်ကြသည်။ထို့ပြင် အခြားလိင်နှင့်ဆိုင်သောဟော်မုန်းများနှင့် အင်ဆူလင် သန့်သန့်များကိုလည်း ရရှိနိုင်ကြလေသည်။

သိုင်းရှိုက်နှင့် အချို့ လိင်နှင့် ဆိုင်သော ဟော်မုန်းများကို ပါးစပ်မှ စားသုံးနိုင်၍ ယင်းတို့ကို အစာအိမ်နှင့် အူများမှ တဆင့် စုတ်ယူသွားနိုင်သည်။ အခြား ဟော်မုန်း အမြောက်အမြားကိုမူ ဟိုက်ပိုဒါမစ် ပြွန်ဖြင့် ထိုးသွင်းပေးရလေသည်။ ဦးနှောက် အောက်အတက်၏ နောက်ပိုင်းအဖုမှ ဟော်မုန်းကိုမူ နှာခေါင်း၏ ကျိခဲ့မြှေးများမှတဆင့် စုတ်ယူခြင်းဖြင့် ရရှိနိုင်လေသည်။

ဟိုင်ပါဖန်းရှင်းခေါ် ဟော်မုန်း အထွက်များလွန်းလျှင် ခွဲစိတ်ကုသနည်းဖြင့် ဂလင်း၏ တစိတ်တဒေသကို ထုတ်ပယ်ပစ်ရန် လိုကောင်း လိုပေလိမ့်မည်။ ဟော်မုန်းနှင့် စပ်လျဉ်းသော အခြား ကိစ္စများအတွက် အိပ်စရေးဖြင့် ကုသပေးခြင်းသည် ကောင်းမွန်ကြောင်းကိုလည်း တွေ့ရှိရသည်။

သိုင်းရှိုက်ဂလင်းမှဟော်မုန်းကို သိုင်းရော့ဆင်ဟု ခေါ်၏။ လည်ပင်းကြီးနာသည် သိုင်းရှိုက်ဂလင်း တက်ကြွလှုပ်ရှားလွန်းခြင်းကြောင့်နှင့် ကျယ်ပြန့် လာခြင်းကြောင့် ဖြစ်ရခြင်းဖြစ်သည်။ မစ်ဆီဒီးမား၊ သို့မဟုတ် ဆွံ့နာသည် သိုင်းရော့ဆင် စစ်ထွက်လာခြင်း နည်းပါးလွန်းခြင်းကြောင့် ဖြစ်သည်။ သိုင်းရော့ဆင် နည်းပါးခြင်းကြောင့် ဖြစ်ရသည့် ရောဂါများအတွက် သိုင်းရှိုက်ပစ္စည်းကို ဆေးသောက်သကဲ့သို့ သောက်ပေးခြင်းဖြင့် ရောဂါများ ပျောက်ကင်းနိုင်ကြောင်းကို ၁၈၅၁ ခုနှစ် ကတည်းကပင် သိခဲ့ကြလေသည်။ ယခုအခါတွင် သိုင်းရော့ဆင်ကို ဓာတုဗေဒ သဘောဖြင့် ဖော်စပ်နိုင်ပြီ ဖြစ်၍ ထိုပစ္စည်းကို ရိုးရိုးဆေးများ စားသကဲ့သို့ စားခြင်းဖြင့်၎င်း၊ ထိုဆေးကို ထိုးဆေးအဖြစ်ဖြင့်၎င်း အသုံးပြုနိုင်လေသည်။

ကျောက်ကပ်စီးဂလင်းများ၏ အတွင်းသားမှ အက်ပီနက်ဖရင် ခေါ် ဟော်မုန်းတမျိုးကို စစ်ထုတ်ပေးသည်။ လူတဦး တယောက် ဒေါသထွက်လာသောအခါတွင် ဖြစ်စေ၊ ကြောက်ရွံ့လာသောအခါတွင် ဖြစ်စေ အက်ပီနက်ဖရင်က သွေးဖိအားကို တိုးစေပြီးလျှင် နှလုံးကို တက်ကြွစေသည်။ တနည်းအားဖြင့် ထိုလူကို အမှုကိစ္စတခုခုကို ပြုလုပ်စေရန် ဖန်တီး ပေးလေသည်။ အက်ဒြီနယ်လင် ခေါ် အက်ပီနက်ဖရင်အရည်ဖြင့် အချို့ လန့်သောကိစ္စများနှင့် နှလုံးရောဂါကို ကုသပေးလေ့ ရှိကြသည်။ ကျောက်ကပ်စီးဂလင်း၏ အပြင်လွှာမှ ကော်တင်ခေါ် ဟော်မုန်းတမျိုးကို ဖြစ်ပေါ်စေသည်။ အက်ဒီဆင် ရောဂါသည် ကျောက်ကပ်စီး အပြင်လွှာမှ ဟော်မုန်း အထွက်နည်းခြင်းကြောင့် ဖြစ်သည်။ ထိုရောဂါဖြစ်လျှင် ကွယ်လွန်သည်က များသည်။ ကော်တင်ကို ထိုးသွင်းပေးခြင်းဖြင့် ထိုရောဂါကို သက်သာစေနိုင်သည်။

လင်ဂါဟန် ကျွန်းကွက်များခေါ် ပန်ကရိမျာ:ရှိ အချို့ဆဲများ၏ ဟော်မုန်းကို အင်ဆူလင်ဟု ခေါ်သည်။ ထိုဆဲများက အင်ဆူလင်ကို လုံလောက်စွာ စစ်ထုတ်မပေးလျှင် ခန္ဓာကိုယ်သည် ခန္ဓာကိုယ်အတွင်းရှိ သကြားကို အသုံးမပြုနိုင်တော့ချေ။ ထိုကဲ့သို့သော ချို့တဲ့မှုက ပြင်းထန်သည့် ရောဂါဝေဒနာ တမျိုးဖြစ်သော ဆီးချိုရောဂါကို ဖြစ်စေနိုင်သည်။ တိရစ္ဆာန်များရှိ ပန်ကရိများမှ အင်ဆူလင်ကို ထိုးသွင်းပေးခြင်းဖြင့် ရောဂါ၏ မကောင်းကျိုးများကို သက်သာစေနိုင်ပေသည်။ သို့သော် ထိုသို့ ထိုးသွင်းပေးခြင်းကို တသက်ပတ်လုံး ပြုလုပ်သွားရလေသည်။

ဦးနှောက်အောက်အတက် ဂလင်းကို မာစတာဂလင်းဟု ခေါ်ကြသည်။ ယင်း၏ အတွင်းပိုင်း၊ သို့မဟုတ် ရှေ့ပိုင်း အဖုမှ ဟော်မုန်းသည် လိင်အင်္ဂါ၊ ပန်ကရိ၊ ကျောက်ကပ်စီး၊ သိုင်းရှိုက်တို့၏ လှုပ်ရှားတက်ကြွမှုများကို ဖန်တီးပေးကြရုံမက ပါရာသိုင်းရှိုက်(ဒိုင်းပုံ)ဂလင်း၏ လှုပ်ရှားတက်ကြွမှုကိုပါ ဖန်တီးပေးကောင်း ပေးပေလိမ့်မည်။ ထိုဟော်မုန်းများအနက် ဟော်မုန်းတမျိုးက ခန္ဓာကိုယ်၏ ကြီးထွားမှုကို အားပေးလေသည်။ အဆမတန် ကြီးထွားသူများနှင့် အဆမတန် သေးငယ်သူများ၏ ကြီးထွားမှုနှုန်းနှင့် သေးငယ်မှုနှုန်းတို့၏ ထူးခြားမှုများသည် ဦးနှောက်အောက်အတက်မှဖြစ်ပေါ်သည့် ဟော်မုန်း များလွန်းခြင်းနှင့် နည်းလွန်းခြင်းကြောင့် ဖြစ်သည်ဟု ယူဆကြသည်။ ကြီးထွားမှု နည်းပါးသော အခါတွင် ကြီးထွားစေသည့် ဟော်မုန်းများကို ထိုးသွင်းပေးလေ့ ရှိကြလေသည်။

အခြားအရေးကြီးသော ဦးနှောက် အောက်အတက် ဂလင်းမှ ဟော်မုန်းတမျိုးက လိင်အင်္ဂါများ (ဥအိမ်နှင့် ဝှေးများ)ကို ကြီးထွားစေရုံမက အမများအား ဥများဖြစ်စေမှုကို အားပေးသေးသည်။ ပရိုလက်တင်ခေါ် အခြား ဟော်မုန်းတမျိုးက ရင်သားများကို ကြီးထွားစေပြီးလျှင် နို့များကို စစ်ထွက်စေသည်။

လိင်အင်္ဂါများက မျိုးပွားစေရာတွင် အသုံးဝင်သည့် ဆဲများကို ဖြစ်ပေါ်စေရုံမက သွေးအတွင်းသို့လည်း ဟော်မုန်းများကို စစ်ထွက် စေသေးသည်။ ယောကျ်ား အင်္ဂါများ၊ သို့မဟုတ် ဝှေးများက တက်စတော့ စထရုန်းများကို ဖြစ်ပေါ်စေ၍ ဥအိမ်များဖြစ်သော အမအင်္ဂါများက အက်စထရုန်းနှင့် ပရော့ဂက်စတာရုန်းများကို ဖြစ်ပေါ်စေသည်။ ထို ဟော်မုန်းများသည် ယောကျ်ားနှင့် မိန်းမတို့အား ကိုယ်အနေအထား ကွဲပြားမှုကို ဖြစ်စေသည်။ ထိုဟော်မုန်းများသည် ယောကျ်ားနှင့် မိန်းမတို့၏ ခန္ဓာကိုယ်ဆောက်တည်ပုံ၊ ကြွက်သား၊ အဆီ၊ ဆံပင် ကြီးထွားမှု၊ အသံသြဇာနှင့် ကိုယ်ဟန် သွင်ပြင် ခြားနားမှုကို ဖြစ်စေသည်။ လိင်အင်္ဂါများ ဖရိုဖရဲ ဖြစ်သောအခါတွင် လိင်နှင့်ဆိုင်သော ဟော်မုန်းများကို ထိုးသွင်းပေးရ လေသည်။

ဦးနှောက် အောက်အတက်၏ နောက်ပိုင်းရှိ အဖုမှ ပစ်တျူအစ်တြင်ခေါ် ဟော်မုန်းတမျိုးကို စစ်ထွက်ပေး

သည်။ ထိုဟော်မုန်းက ကျောက်ကပ်အား ရေကို စုတ်ယူနိုင်အောင် ပြုပေးသည်။ အဆိုပါ အဖုမှ စ၍ထွက်လာသော ဟော်မုန်းနည်းလျှင် ရေငတ် ဆီးလွန်ရောဂါကို ဖြစ်စေ၍ ထိုရောဂါ စွဲကပ်လျှင် ကျောက်ကပ်မှ ဆီး အမြောက်အမြား စီးထွက်လာလေသည်။

အင်ဒိုကရင်း ဂလင်းများအပြင် အခြားအင်္ဂါများမှလည်း အရေးကြီးသော ဟော်မုန်းများကို စစ်ထွက်ပေးကြသေးသည်။ အူ၏ ကျိချဲမြေးမှ ဆီကရီဘင် ဖြစ်ပေါ်စေရာ ထိုပစ္စည်းက ပန်ကရိအရည် စီးခြင်းကို တိုးပွားစေသည်။ အခြား အူများမှ ဖြစ်ပေါ်လာသော ဟော်မုန်းမှာ ကောလီဆစ္စတိုကင် ဖြစ်၍ ယင်းက သည်းခြေအိတ်ကို ကျုံ့စေသည်။ အင်တာရိုဂက်စသရန်းကမူ အစာကြေခြင်းကို နှေးကွေးစေသည်။ အစာအိမ်၌ ဖြစ်ပေါ်သော ဟော်မုန်းတမျိုးမှာ ဂတ်စတြင်ဖြစ်၍ ထိုဟော်မုန်းက အက်ဆစ်ကို စစ်ထွက်စေသည်။ ဆင်ပသင် ကဲ့သို့သော ဓာတ်ပစ္စည်းများလည်း ဖြစ်ပေါ်သေးရာ ယင်းတို့က သွေးဘိုးခြင်းကို ပြုပြင်ပေးလေသည်။ ထိုပစ္စည်းများသည်လည်း ဟော်မုန်းများဖြစ်သည်ဟု အဆိုပြုထားချက်များ ရှိလေသည်။

တိရစ္ဆာန်များကသာ ယခုကဲ့သို့ ဟော်မုန်းများကို ထုတ်ပေးကြသည် မဟုတ်။ အပင်များကလည်း ဟော်မုန်းများကို ထုတ်ပေးကြသေးသည်။ အော့ဆင်ခေါ် ကြီးထွားမှု ဟော်မုန်းများသည် အပင်၏ထိပ်ဖက်တွင် ဖြစ်ပေါ်ကြလေသည်။ ထိုဟော်မုန်းကြောင့် အပင်သည် မြေကြီးနှင့် ဝေးရာ အလင်းဖက်ဆီသို့ ကြီးထွား၍ သွားလေသည်။ ထိုဟော်မုန်းများက အမြစ်သစ်များကိုပါ ဖြစ်စေရုံမက အချို့ အဖူးမျိုး ဖြစ်ပေါ်ခြင်းကိုလည်း တားဆီး ပေးသေးသည်။ နွေကူးရာသီများ၌ သစ်ပင်များတွင် အသားတိုး ဖြစ်လေ့ရှိခြင်းကို အုပ်ထိန်းပေးသော အခြား အော့ဆင်များလည်း ရှိသေးသည်။ ဝတ်မှုန်အတွင်းရှိ အော့ဆင်တမျိုးက အသီးကို စ၍ ဖြစ်ပေါ်စေပုံရသည်။ ဝတ်မှုန်အစား အော့ဆင်တမျိုးကို အသုံးပြုခြင်းဖြင့် ဝတ်မှုန် မရှိပဲ အသီး သီးနိုင်လေသည်။ အနာတရ ဖြစ်နေသော နေရာပေါ်တွင် တစ်ရှူးအသစ် ဖြစ်ပေါ်စေရန် အနာတရ ဟော်မုန်းခေါ် အပင် ဟော်မုန်း တမျိုးက အားပေးသည်ကို တွေ့ရလေသည်။

**ဟော်လီပင်။** ။တောက်ပသည့် အရွက်စိမ်းများနှင့် အနီရောင် ဗဲရီသီးများ သီးသော ဟော်လီပင်များသည် သမပိုင်း ရာသီဥတုရှိသော တိုင်းပြည်များတွင် ပေါက်လေ့ရှိသည်။ ဟော်လီပင်တွင် မျိုးစိတ် အများအပြားရှိရာ အမေရိကန်နိုင်ငံ၌ မူလ ပေါက်ရောက်သော ဟော်လီပင်သည် များသောအားဖြင့် ပေလေးဆယ်မှ ငါးဆယ်အထိ ရှိ၍ အမြင့်ဆုံးမှာ ပေတရာအထိ မြင့်လေသည်။ သို့သော်



တူရိယာပစ္စည်း ပြုလုပ်ရန်အသုံးဝင်သည့် ဟော်လီပင်

အမေရိကန်နိုင်ငံတွင် သာမန်ပေါက်သော ဟော်လီပင်၏ အရွက်နှင့် အသီးများ၏ အရောင်တို့သည် ဥရောပတိုက်တွင် ပေါက်ရောက်လေ့ရှိသော ဟော်လီပင်၏ အရွက်နှင့် အသီးများလောက် မတောက်ပကြချေ။ ဥရောပ ဟော်လီမျိုးသည် ဂရိတ် ဗြိတိန်နိုင်ငံတွင် မူလ ပေါက်ရောက်လေသည်။ နိုင်ငံခြား ဟော်လီမျိုးများကို မြောက်အမေရိကတိုက်တွင် ၁၇၂၆ ခုနှစ်ခန့်က စတင်၍ သွင်းယူ စိုက်ပျိုးခဲ့ကြသည်။

ဟော်လီရွက်များနှင့် အသီးများကို နှစ်သက်ဖွယ်ကောင်းသည့် နာတာလူးပွဲတော် (ခရစ္စမတ်)ပန်းခွေများ အဖြစ် ပြုလုပ်လေ့ရှိကြသည်။ ရှေးက နာတာလူးပွဲတော် အခါတွင် ထိုအပင်ကို အိမ်နှင့် ဘုရားဝတ်ပြုကျောင်းများ ၌ အသုံးပြုလေ့ရှိခဲ့ကြသည်။ ဟော်လီရွက်တွင် အနားစောင်းတလျှောက်၌ ဆူးများရှိသည်။ ဟော်လီပင်များသည် ဆောင်းကူးရာသီနှင့် ဆောင်းရာသီတွင် အသီးများ သီးကြသည်။

ဟော်လီပွင့်များသည် သေး၍ ဖြူကြသည်။ နှစ်အစ လောက်၌ပင် ပန်းများ ပွင့်လေ့ရှိကြသည်။ အသီးများသည် အခြားအသီးများကဲ့သို့ပင် ဆောင်းကူးရာသီ၌ မှည့်

တတ်ကြသော်လည်း တခါတရံ နွေကူးရာသီ ရောက်သည့်တိုင်အောင် အပင်ပေါ်၌ ရှိနေတတ်ကြသေးသည်။

အင်္ဂလန်နိုင်ငံတွင် ပေါက်ရောက်သော ဟော်လီပင်ကိုသာ ပစ်ထားမည်ဆိုလျှင် ထိုအပင်သည် ကြီးမားသည်အထိ ပေါက်ရောက်ပေလိမ့်မည်။ သို့သော် ထိုအပင်များကို များသောအားဖြင့် ခြံစည်းရိုးအတွက် ချိုင်၍ ပစ်လေ့ရှိကြသည်။ အင်္ဂလန်နိုင်ငံ၌ ပေါက်ရောက်သော ဟော်လီပင်သည် ဟော်လီပင်များတွင် များသောအားဖြင့် အကြီးဆုံး ဖြစ်လေသည်။ ထိုအပင်များသည် ဝက်သစ်ချနှင့် သင်းဝင်တောများအတွင်း၌ အထူးသဖြင့် ကောင်းမွန်စွာ ပေါက်ရောက်ကြလေသည်။ ထိုဟော်လီပင်များသည် နှေးကွေးစွာ ကြီးထွားကြသဖြင့် အသားမှာ မာပြီးလျှင် ကျစ်လေသည်။ အသား၏ အရောင်မှာ အဖြူဖြစ်သည်။ ထိုအသားဖြင့် ရှေးအခါက အိမ်ထောင်ပရိဘောဂများကို ပြုလုပ်ခဲ့ကြသော်လည်း ယခုအခါတွင်မူ မပြုလုပ်ကြတော့ချေ။ လက်ကိုင် တုတ်များ ပြုလုပ်ရာတွင်လည်း ဖြောင့်မတ်သည့် ဟော်လီ ကိုင်းကလေးများသည် အကောင်းဆုံးနှင့် အခိုင်ခံ့ဆုံး ဖြစ်ကောင်း ဖြစ်ပေလိမ့်မည်။ တူရိယာပစ္စည်းများ ပြုလုပ်ရန်လည်း ဟော်လီသားသည် ကောင်းမွန်လေသည်။

တောင်အမေရိကတိုက်တွင် ပေါက်ရောက်သော ဟော်လီမျိုးစိတ်တခုမှ အရွက်များကို လက်ဖက်ရည်ကဲ့သို့ ကျို၍ သောက်နိုင်လေသည်။

ဟော်လီပင်မျိုးစိတ် အားလုံးသည် အိုင်းလက်မျိုးစုဝင်များ ဖြစ်ကြပြီးလျှင် အက်ကွီဖောလီယာစီအီးမျိုးရင်းဝင်များ ဖြစ်ကြလေသည်။ အမေရိကန်နိုင်ငံတွင် သာမန်အားဖြင့် ပေါက်ရောက်လျက်ရှိသော ဟော်လီပင်ကို အိုင်းလက် အိုပေးကားဟုခေါ်၍ ဥရောပတိုက်တွင် ပေါက်ရောက်သော ဟော်လီပင်ကိုမူ အိုင်းလက် အက်ကွီဖိုလီယမ်ဟုခေါ်လေသည်။

**ဟော်လီဝု။** ။ဟော်လီဝုသည် ကာလီဖိုးနီးယားပြည်နယ်၊ လော့စ်အိန်ဂျလီးမြို့၏ ဆင်ခြေဖုံး ရပ်ကွက် ဖြစ်သည်။ အမေရိကန်ပြည်ထောင်စုတွင် ရုပ်ရှင်လုပ်ငန်းအတွက် ဗဟိုအချက်အခြာ ဌာန ဖြစ်၍ မြို့ကြီးတမြို့ကဲ့သို့ ခမ်းနားစည်ကားသောကြောင့် ကမ္ဘာ့ရုပ်ရှင်မြို့တော် ဟူ၍ ထင်ရှားလေသည်။ ဟော်လီဝုနှင့် အနီးအနားရှိ ရပ်ကွက်များတွင် ကြီးကျယ်သော ရုပ်ရှင် စတူဒီယိုများ ရှိသည်။ အနီးရှိ ဗေဗာလီ ဟီး ခေါ် ရပ်ကွက်တွင် နာမည်ကျော်ရုပ်ရှင်ပညာသည် အများ နေထိုင်ကြသည်။

ထိုအရပ်၌ နက်စတာ ကုမ္ပဏီက ပဌမဦးဆုံး ရုပ်ရှင်စတူဒီယိုကို ၁၉၁၁ ခုနှစ်တွင် စတင် တည်ဆောက်ခဲ့သည်။ ဟော်လီဝုတွင် လူဦးရေ ၁၇၉,၇၄၉ ယောက်ခန့် နေထိုင်သည်။

**ဟော်လန်နိုင်ငံ။** ။နယ်သာလန်နိုင်ငံ — ရှု။

**ဟောကင်း၊ ဆာ ဂျွန်** (ခရစ် ၁၅၃၂–၁၅၉၅)။ ။ ဆာ ဂျွန် ဟောကင်းသည် ပဌမ အယ်လစ်ဇဗက် ဘုရင်မလက်ထက်က နာမည်ထင်ရှားသော အင်္ဂလိပ် ရေတပ် ဗိုလ်ချုပ်ကြီး ဖြစ်သည်။ ၁၅၃၂ ခုနှစ်တွင် ဒက်ဗွန်ရှိုင်ယာနယ် ပလင်းမတ်မြို့၌ ဖွားမြင်၍ ပင်လယ်တွင် သွားလာ ကျက်စားသူ ဆွေမျိုးသားချင်းတို့ အကြား၌ ကြီးပြင်းလာခဲ့ရသည်။ နာမည်ကျော် ရေတပ်ဗိုလ်ချုပ်ကြီး ဆာဖရန်းစစ်ဒရိတ်နှင့် ခေတ်ပြိုင်ထင်ရှားခဲ့သူလည်း ဖြစ်သည်။ (ဒရိတ်၊ ဆာ ဖရန်းစစ်လည်း — ရှု။)

ပဌမ အယ်လစ်ဇဗက် ဘုရင်မ လက်ထက်တွင် အင်္ဂလန်နိုင်ငံနှင့် စပိန်နိုင်ငံတို့သည် ပင်လယ်ပြင်၌ ရေတပ်ချင်းအင်အားပြိုင်လျက် ရှိကြရာ ဆာ ဂျွန် ဟောကင်း၏ သူရသတ္တိကြောင့် စပိန်ရေတပ်ကို နှိမ်နင်းနိုင်ခဲ့လေသည်။ သို့ရာတွင် အာဖရိကတိုက်မှ ကပ္ပလီ လူမျိုးများကို အမေရိကတိုက်သို့ ယူဆောင်ခဲ့၍ ကျေးကျွန်အဖြစ် ရောင်းချကာ စီးပွားရှာသူဖြစ်ခြင်းကြောင့် ရှုံ့ချပြစ်တင်ဖွယ်ရာဖြစ်သည်။ ၁၅၆၂ ခုနှစ်တွင် ဟောကင်းသည် သင်္ဘောသုံးစင်းဖြင့် အာဖရိက အနောက်ဖက် ကမ်းရိုးတန်းသို့ သွားရောက်၍ ကပ္ပလီ အမျိုးသားများကို တင်ဆောင်ခဲ့ပြီးလျှင် အမေရိကတိုက် အလယ်ပိုင်းရှိ စပိန်ပိုင် နယ်များ၌ ကျေးကျွန်အဖြစ် ရောင်းချခြင်း၊ သကြား၊ ဂျင်၊ ပုလဲ စသော ကုန်စည်တို့



အင်္ဂလိပ် ရေတပ် ဗိုလ်ချုပ်ကြီး ဆာ ဂျွန် ဟောကင်း

ဖြင့် ဖလှယ်ခြင်းကို လုပ်ကိုင်ခဲ့သည်။ ထိုလုပ်ငန်းဖြင့် စီးပွားလမ်းဖြောင့်လာသောအခါ ၁၅၆၄ ခုနှစ်တွင် ဒုတိယ အကြိမ် ပင်လယ်ခရီးထွက်၍ ကျွန်အရောင်းအဝယ် လုပ်ငန်းကို လုပ်ကိုင်ပြန်သည်။ ဟောကင်း စီးပွားရေး တိုးတက်ပုံကို အားကျသော အင်္ဂလိပ် မှူးမတ် မျိုးနွယ်တို့နှင့် ဘုရင်မကြီး ကိုယ်တိုင် ထိုလုပ်ငန်းကို အားပေးကြသည်ဟု ဆိုသည်။ သို့ရာတွင် ၁၅၆၇ ခုနှစ်၌ နောက်တကြိမ် ကျွန်ကုန်ကူးရန် အမေရိကတိုက်သို့ ခရီးထွက်လာသောအခါ မက္ကဆီကို ကမ်းခြေရှိ ဗေရကရု ဆိပ်ကမ်း၌ စပိန်ရေတပ်က တိုက်ခိုက်ခြင်းကို ခံရလေသည်။

ထိုတိုက်ပွဲတွင် ဟောကင်းတို့ဖက်မှ သင်္ဘောနှစ်စင်းသာ လွတ်မြောက်ခဲ့သည်။ ကျွန်သင်္ဘောများနှင့်တကွ အဖိုးတန် ကုန်ပစ္စည်းများ ဆုံးရှုံးရလေသည်။ လွတ်မြောက်ခဲ့သော သင်္ဘောနှစ်စင်းအနက် တစင်းသည်လည်း ပင်လယ်ထဲတွင် နစ်မြုပ်သွားလေရာ ဟောကင်းသည် ကျွန်သင်္ဘောတစင်း ဖြင့် အင်္ဂလန်နိုင်ငံသို့ ပြန်ခဲ့ရသည်။

၁၅၇၈ ခုနှစ်တွင် ဟောကင်းကို အင်္ဂလိပ် ရေတပ်မတော် ၌ ဘဏ္ဍာရေးမှူး ခန့်သည်။ မကြာမီ အုပ်ချုပ်ရေးမှူး ရာထူးသို့ တိုးမြှင့်ပေးခြင်း ခံရသည်။ ၁၅၈၈ ခုနှစ်တွင် စပိန် ရေတပ်ကြီးသည် အင်္ဂလန်နိုင်ငံကို တိုက်ခိုက်ရန် ချီတက်လာသောအခါ ဟောကင်းအား ရေတပ်ဗိုလ်ချုပ်ကြီး ခန့်၍ ရန်သူရေတပ်ကို ခုခံစေသည်။ ဟောကင်းသည် ဆာ ဖရန်းစစ် ဒရိတ်နှင့် အတူ စပိန်ရေတပ်ကြီးကို အောင်မြင်စွာ တွန်းလှန်တိုက်ခိုက်ခဲ့သည်။ ထိုကဲ့သို့ အောင်ပွဲရအောင် ဆောင်ရွက်ခဲ့သဖြင့် ဆာဘွဲ့ ချီးမြှင့်၍ သူကောင်းပြုခြင်းကို ခံရလေသည်။

၁၅၉၅ ခုနှစ်တွင် ဟောကင်းနှင့် ဒရိတ်တို့ ပူးပေါင်း၍ အနောက် အိန္ဒိယကျွန်းစုရှိ စပိန်တို့၏ စခန်းများကို တိုက်ခိုက်ရန် ပင်လယ်ခရီး ထွက်လာစဉ် ပွာတိုရီးကိုး ကျွန်းအနီး၌ အဖျားရောဂါဖြင့် ၁၅၉၅ ခုနှစ် နိုဝင်ဘာလ ၁၂ ရက်နေ့တွင် အနိစ္စ ရောက်လေသည်။

**ဟောရေ့** (ဘီစီ ၆၅–ဘီစီ ၈) ။ ။ဟောရေ့သည် ရှေးနှစ်ပေါင်း ၂,၀၀၀ ကျော်က ထင်ရှား ပေါ်ထွန်းခဲ့သော ရောမကဗျာစာဆိုဖြစ်သည်။ နာမည်အပြည့်အစုံမှာ ကွင်းတပ် ဟိုရေးရှပ် ဖလက်ကပ် ဟောရေ့ ဖြစ်၍ ဘီစီ ၆၅ ခုနှစ် ဒီဇင်ဘာလ ၈ ရက်နေ့တွင် ဣတလီနိုင်ငံတောင်ပိုင်း ဗင်နူးရှားမြို့၌ ဖွားမြင်သည်။ သူ၏ဖခင်မှာ သာမန် လူတန်းစားထဲမှ ဖြစ်သော်လည်း မိမိ၏သားကို ခေတ်ပညာတတ် တယောက် ဖြစ်မြောက်လာစေချင်သည်။ ထို့ကြောင့် ဟောရေ့ကိုရောမမြို့တော်ကြီး၌ ခြောက်နှစ်မျှ ပညာဆည်းပူးစေပြီးနောက် အသက် ၁၈ နှစ် အရွယ်တွင်



ရောမ ကဗျာစာဆို ဟောရေ့

အက်သင်းမြို့သို့ ပညာဆက်လက်သင်ရန် စေလွှတ်ခဲ့လေသည်။ မိမိ၏သားသည် အခြားသော လူကုံထံသားတို့နှင့် တန်းတူနေနိုင်ရန်အတွက် ကိုယ်တိုင်ခြိုးခြံ၍ နေထိုင်သည်။ သားဖြစ်သူသည် ပညာတတ်ရုံမျှသာ မဟုတ်၊ အကျင့်စာရိတ္တကောင်းမွန်ရန် အတွက်ကိုလည်း ပြုပြင်ပေးလေသည်။ ဟောရေ့သည် ဖခင်၏ မွန်မြတ်သော စေတနာကို မိမိရေးသော စာပေတို့တွင် ဖော်ပြခြင်းဖြင့် ကျေးဇူးဆပ်ခဲ့ပေသည်။

ဘီစီ ၄၄ ခုနှစ်တွင် ရောမစစ်သူကြီး ဂျူးလယပ် ဆီဇာ လုပ်ကြံခြင်းကို ခံရပြီးနောက် ပြည်တွင်းစစ် ဖြစ်ပွားလာရာ ဟောရေ့သည် ဗရူးတပ်ဖက်မှ ဝင်ရောက်၍ စစ်မှုထမ်းခဲ့သည်။ ဗရူးတပ်တို့ အရေးနိမ့်သောအခါ ဟောရေ့သည် ရောမမြို့သို့ ပြန်ခဲ့ပြီးလျှင် စာရေးအလုပ်ကို လုပ်ကိုင်နေစဉ် ကဗျာများကို စပ်ဆိုလေသည်။ စာပေလောကတွင် ဟောရေ့၏နာမည် ထွက်လာရာ ကဗျာစာဆိုတော် ဗာဂျီ၏ အကူအညီဖြင့် သူဌေးကြီး မီစီးနပ် ဆိုသူနှင့် ဆက်သွယ်မိသည်။ မီစီးနပ်သည် ရောမ အနုပညာနှင့် စာပေတို့ကို အားပေးချီးမြှောက်သူ ပုဂ္ဂိုလ်ကြီးဖြစ်သည့်အားလျော်စွာ ဟောရေ့ကိုလည်း ချီးမြှင့် မြှောက်စားခဲ့လေသည်။ (ဗာဂျီ — လည်းရှု။)

ဟောရေ့သည် ကဗျာများကို စပ်ဆိုရာ၌ ထိမိသော စကားလုံးများကို ချက်ကျနိုင်နင်းစွာ သုံးစွဲနိုင်သည့်အပြင် လူတို့၏ အပြစ်အနာတို့ကို ယထာဘူတကျကျ ဖေဖန်နိုင်

စွမ်းလည်း ရှိပေသည်။ ထို့ကြောင့် သူ၏ လစ်ရစ်ကဗျာများသည် ခန့်ညားၡ၍ ယခုထက်တိုင် ဂန္ထဝင်စာပေအဖြစ် လေ့လာလျက် ရှိကြရသည်။

ဟောရေး၏ ကဗျာများကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့ကြသည်။ မူလစာဆို၏ အာဘော်ကိုမိအောင် ဘာသာပြန်နိုင်ရန် ခဲယဉ်းသော်လည်း ပါမောက္ခ ဂျွန် ကိုနင်တန် (ခရစ် ၁၈၂၅–၆၉) နှင့် ဆာ သီအိုဒိုး မာတင် (ခရစ် ၁၈၁၆–၁၉၀၉) တို့၏ ဘာသာပြန်ချက်များသည် အကောင်းဆုံးဟု ဆိုရပေမည်။

ဟောရေးသည် ဘီစီ ၈ ခုနှစ် နိုဝင်ဘာလ ၂၇ ရက်နေ့တွင် ရောမမြို့၌ ကွယ်လွန်လေသည်။

**ဟောလဒိန်း, ဂျေ၊ ဗီ၊ အက် (စ)** (၁၈၉၂ ခု ဖွား)။ ။ဂျွန် ဗာဒွန် ဆန်ဒါဆင် ဟောလဒိန်းသည် မျိုးပွားခြင်းနှင့်ဆိုင်သော ပညာဖက်တွင် ထင်ရှားသော ဗြိတိသျှအမျိုးသားသိပ္ပံပညာရှင် ဖြစ်သည်။ သူ၏ဖခင် ပါမောက္ခ ဂျွန် စကော့ ဟောလဒိန်း (၁၈၆၀–၁၉၃၆) သည်လည်း နာမည်ကျော် သိပ္ပံပညာရှင် တဦးဖြစ်၍ ဦးရီးတော် လော့ ဟောလဒိန်း (၁၈၅၆–၁၉၂၈)သည်လည်း ထင်ရှားသော ဗြိတိသျှနိုင်ငံခေါင်းဆောင်ကြီးတဦး ဖြစ်လေသည်။ ဂျွန် ဗာဒွန် ဟောလဒိန်းသည် ငယ်စဉ်ကစ၍ ဇီဝဗေဒပညာကို လေ့လာခဲ့ရသည့်အပြင် သုတေသန လုပ်ငန်း၌ အလွန် စိတ်ဝင်စားသူ ဖြစ်ခြင်းကြောင့် ဖခင်ကဲ့သို့ပင် ထိုပညာရပ်တွင် နာမည်ထင်ရှားခဲ့ပေသည်။

ဂျွန် ဗာဒွန် ဟောလဒိန်းသည် ၁၈၉၂ ခုနှစ် နိုဝင်ဘာလ ၅ ရက်နေ့တွင် အင်္ဂလန်နိုင်ငံ အောက်စဖို့မြို့၌ ဖွားမြင်သည်။ အီတန် ကောလိပ်ကျောင်းနှင့် အောက်စဖို့တက္ကသိုလ်တို့တွင် ပညာသင်ကြားခဲ့ပြီးနောက် ပဌမကမ္ဘာစစ်အတွင်းက စစ်မှုထမ်းခဲ့သည်။ ၁၉၂၂ ခုနှစ်မှစ၍ ကိမ်းဗရစ် တက္ကသိုလ်တွင် ဇီဝဓာတုဗေဒ ကထိက အဖြစ် ဆောင်ရွက်သည်။ ထိုတက္ကသိုလ်၌ အမှုထမ်း နေစဉ် ဟောလဒိန်းသည် သိပ္ပံပညာရပ်ဆိုင်ရာ လက်တွေ့စမ်းသပ်ချက် အမျိုးမျိုးတို့ကို စွန့်စွန့်စားစား ပြုလုပ်၍ သိပ္ပံပညာဖက်တွင် အသစ်တွေ့ရှိချက်များကို ထုတ်ဖော်နိုင်ခဲ့သဖြင့် နာမည်ကျော်ကြားလာလေသည်။

ဟောလဒိန်းသည် ၁၉၃၀ ပြည့်နှစ်မှ ၁၉၃၂ ခုနှစ် အထိ ရှိုင်ယယ်အင်စတီကျူးရှင်း ခေါ် လန်ဒန်မြို့ရှိ သိပ္ပံပညာ ပြန့်ပွားရေး အဖွဲ့တွင် ဇီဝကိစ္စဗေဒဆိုင်ရာ ပါမောက္ခအဖြစ် ဆောင်ရွက်ခဲ့သည်။ ထိုနောက် ၁၉၃၃ ခုနှစ်မှ ၁၉၃၇ ခုနှစ် အထိ လန်ဒန်တက္ကသိုလ်တွင် မျိုးပွားခြင်းပညာဆိုင်ရာ ပါမောက္ခအဖြစ် အမှုထမ်းခဲ့သည်။ ဟောလဒိန်းသည် မျိုးပွားခြင်းဆိုင်ရာ ပညာတွင် လက်တွေ့စမ်းသပ်မှုများကို အောင်မြင်စွာ လုပ်ကိုင်နိုင်ခဲ့ခြင်းကြောင့် ဗြိတိသျှကျွန်းစု၌ တိရစ္ဆာန် မွေးမြူရေး လုပ်ငန်းသည်လည်း များစွာ တိုးတက်ခဲ့သည်ဟု သိရသည်။

ဟောလဒိန်း၏ ဖခင်သည်လည်း သိပ္ပံပညာရပ်နှင့်ဆိုင်သော သီအိုရီများကို လက်တွေ့စမ်းသပ် ကြည့်ရမှ ကျေနပ်သူ ဖြစ်သောကြောင့် အသက် ရှစ်နှစ် အရွယ်မျှသာရှိသော သားငယ်ကို ကျောက်မီးသွေးတွင်းထဲသို့ ချ၍ မီးငွေ့အန္တရာယ်နှင့် စပ်လျဉ်းသည့် အသိပညာကို လက်တွေ့ ဆည်းပူးခဲ့သည်။ ၁၉၃၉ ခုနှစ်တွင် "သီးတစ်" အမည်ရှိသော ဗြိတိသျှရေငုပ်သင်္ဘော ပျက်စီး ဆုံးရှုံးခဲ့ရာ ဟောလဒိန်းကိုယ်တိုင် ဓာတ်ငွေ့ အမျိုးမျိုးတို့၏ ဘေးအန္တရာယ် သက်ရောက်ပုံကို သက်စွန့်ကြိုးပမ်းစမ်းသပ်လေ့လာခဲ့လေသည်။

ဟောလဒိန်းသည် ဇီဝဗေဒ ပညာရပ်နှင့် သက်ဆိုင်သော စာအုပ်စာတမ်း များစွာတို့ကို ရေးသားပြုစုခဲ့သည်။ ၁၉၂၇ ခုနှစ်တွင် ဂျူလီယန် ဟပ်စလေနှင့် တွဲဖက်၍ "သတ္တဇီဝဗေဒ" စာအုပ်ကို ရေးသားထုတ်ဝေခဲ့သည်။ ၁၉၄၀ ပြည့်နှစ်မှ စ၍ "ဒေးလီး ဝပ်ကား" ခေါ် နေ့စဉ် သတင်းစာ အယ်ဒီတာအဖွဲ့တွင် သဘာပတိ အဖြစ် ဆောင်ရွက်ခဲ့လေသည်။



ဗြိတိသျှ သိပ္ပံပညာရှင် ဂျွန် ဗာဒွန် ဆန်ဒါဆင် ဟောလဒိန်း

**ဟောလဗိုင်း,ဟန်းဇ** (ခရစ် ၁၄၉၇–၁၅၄၃)။ ။ ဟန်းဇ ဟောလဗိုင်းသည် ပုံတူပန်းချီကား ရေးဆွဲခြင်း၌ ထင်ရှားသော ဂျာမန် ပန်းချီကျော် ဖြစ်သည်။ သူ၏ဖခင်အမည်သည်လည်း ဟန်းဇ ဟောလဗိုင်း ဟူ၍ပင် ဖြစ်သည်သာမက၊ နှစ်ဦးစလုံး ပန်းချီဆရာများ ဖြစ်သောကြောင့် ဖခင်ကို ဟန်းဇ ဟောလဗိုင်း (အကြီး)၊ သားကို ဟန်းဇ


ဂျာမန် ပန်းချီကျော် ဟန်း၎ ဟောလဗိုင်း

ဟောလဗိုင်း (အငယ်) ဟု တခါတရံ ခွဲခြားဖော်ပြလေ့ရှိသည်။ ဟောလဗိုင်းသည် ၁၄၉၇ ခုနှစ်တွင် ဂျာမနီနိုင်ငံ၊ အော့ကစဗုးမြို့၌ ဖွားမြင်ခဲ့၍ ဖခင်ထံ၌ ပန်းချီပညာကို ဦးစွာသင်ကြားခဲ့သည်။

၁၅၁၄ ခုနှစ်တွင် ဟောလဗိုင်းသည် ဆွစ်ဇာလန်နိုင်ငံ ဗားလမြို့သို့ သွားရောက်၍ ပုံနှိပ်စာအုပ်များ၌ သရုပ်ပြပုံများ ရေးဆွဲသည့် လုပ်ငန်းဖြင့် စီးပွားရှာခဲ့လေသည်။ ထိုမြို့တွင် ဒပ်ချအမျိုးသား ပညာရှိကြီး ဧရာ့ဇမပ်နှင့် မိတ်ကျွမ်းဝင်ခဲ့ရာ ထိုပုဂ္ဂိုလ်ရေးသော စာအုပ်၌ သရုပ်ပြပုံများကို ရေးဆွဲခဲ့ရသည်။ ဟောလဗိုင်းသည် အခြားစာရေးဆရာတို့၏ စာအုပ်များအတွက် ရုပ်ပုံများကိုလည်း ရေးဆွဲခဲ့သည်။ အထူးသဖြင့် ဂျာမနီနိုင်ငံ ခရစ်ယန် သာသနာ့အရေးပုံ ခေါင်းဆောင် မာဘင်လူသာကိုယ်တိုင် ဂျာမန်ဘာသာပြန်ဆိုသော သမ္မာကျမ်းစာအုပ်တွင် သရုပ်ပြပုံများကို ရေးဆွဲပေးခဲ့သည်။ ဟောလဗိုင်းသည် ပုံတူပန်းချီကား၊ အယူဝါဒဆိုင်ရာ ပန်းချီကားတို့ကိုင်း၊ ရောင်စုံပြတင်းမှန်ပုံစံနှင့် အမျိုးသမီး အဝတ် အစား တို့ကိုင်း ရေးဆွဲထုတ်လုပ်ခဲ့သည်။ အထူးသဖြင့် ပုံတူပန်းချီကား ရေးဆွဲရာ၌ လက်စွမ်းထက်သည်။

၁၅၂၆ ခုနှစ်တွင် ဟောလဗိုင်းသည် ဧရာ့ဇမပ်ထံမှ မိတ်ဆက်စာဖြင့် အင်္ဂလန်နိုင်ငံရှိ ဆာ တောမတ် မိုးထံသို့ သွားရောက်ခဲ့လေသည်။ ဆာ တောမတ် မိုးသည် အဋ္ဌမ ဟင်နရီဘုရင်နှင့် သင့်မြတ်သော နိုင်ငံခေါင်းဆောင်ကြီးဖြစ်သည့်အပြင် စာရေးဆရာတဦးလည်း ဖြစ်သည်။ ဟောလဗိုင်းသည် ဆာ တောမတ် မိုး၏ ဧည့်သည်အဖြစ်ဖြင့် လန်ဒန်မြို့တွင် နှစ်နှစ်မျှ နေထိုင်ပြီးနောက် ဗားလမြို့သို့ ပြန်ခဲ့သည်။ တဖန် ၁၅၃၁ ခုနှစ်တွင် အင်္ဂလန်နိုင်ငံသို့ ပြန်ခဲ့၍ ဟင်နရီဘုရင်၏ မှူးမတ်မျိုးနွယ်တို့၏ ပုံတူပန်းချီကားများကို ရေးဆွဲသည်။ ထို ပုံတူပန်းချီကားများကို အင်္ဂလန်နိုင်ငံရှိ ဝင်ဆာ ရဲတိုက်တွင် တွေ့မြင် နိုင်သည်။ အဋ္ဌမဟင်နရီဘုရင်၏ ပုံတူပန်းချီကားကိုလည်း ရေးဆွဲခဲ့သည်။ ဘုရင့်အရွယ်တူ ပန်းချီကားမှာ အသက်ဝင်လျက်ရှိသော ဟောလဗိုင်း၏ လက်ရာကောင်းတခုဖြစ်၍ ထိုပုံကိုကြည့်လျှင် ဦးခေါင်းနှင့် ကိုယ်လက်အင်္ဂါတို့ လှုပ်ရှားနေဘိသကဲ့သို့ တွေ့မြင်ရသည်ဟု ချီးကျူးဖော်ပြကြလေသည်။ ၁၅၃၆ ခုနှစ်တွင် ဟင်နရီဘုရင်က နန်းတွင်းပန်းချီဆရာအဖြစ် မြှောက်စားချီးမြှင့်ခြင်းကို ခံရသည်။

ပန်းချီကျော် ဟန်း၎ ဟောလဗိုင်းသည် ဆွစ်ဇာလန်နိုင်ငံနှင့် အင်္ဂလန်နိုင်ငံတို့တွင်သာ များသော အားဖြင့် နေထိုင်ခဲ့သော်လည်း ဂျာမန်ပန်းချီကျော် တဦးအဖြစ် အသိအမှတ်ပြုကြလေသည်။ (ဂျာမန်အနုပညာ — လည်းရှု။) ဟောလဗိုင်း ရေးဆွဲခဲ့သော ပန်းချီလက်ရာများကို အင်္ဂလန်နိုင်ငံတွင် လန်ဒန်မြို့ နေရှင်နယ် ပန်းချီပြတိုက်၊ ဝင်ဆာရဲတိုက်တို့၌ရှိင်း၊ ဥရောပတိုက်တွင် ဟိဘ်မြို့တော်၊ ဘာလင်မြို့၊ ဗီယင်နာမြို့၊ ပါရစ်မြို့၊ မျူးနစ်မြို့၊ ဗားလမြို့တို့၌ ရှိသော ပန်းချီပြတိုက်များ၌ရှိင်း တွေ့မြင်နိုင်သည်။ အထူးသဖြင့် နေရှင်နယ်ပန်းချီပြတိုက်တွင်ရှိသော "မီလန်မြို့စားကတော် ခရစ္စတီးနား" ၏ ပုံဘူကားသည် ဟောလဗိုင်း၏ လက်စွမ်းပြောက်သော ပန်းချီကား ဖြစ်ပေသည်။

ဟောလဗိုင်းသည် ၁၅၄၃ ခုနှစ် နိုဝင်ဘာလတွင် ပလိပ်ကပ်ရောဂါဖြင့် ကွယ်လွန်လေသည်။

**ဟောသွန်း,နသနီယယ်** (ခရစ် ၁၈၀၄-၁၈၆၄)။ ။ နသနီယယ် ဟောသွန်းသည် နာမည်ဆင့်ရှားသော အမေရိကန်လူမျိုး စာရေးဆရာတဦးဖြစ်သည်။ အင်္ဂလန်နိုင်ငံမှ အမေရိကန် နိုင်ငံသို့ နယ်သစ်ဘည်ရန် ရောက်ရှိလာကြသော ပျူရီတန် ဂိုဏ်းသား ဘိုးဘေးမိဖတို့မှ ဆင်းသက်ပေါက်ဖွားလာသူလည်း ဖြစ်သည်။ ထို့ကြောင့် ဟောသွန်းသည် စည်းကမ်းကြီးသော ပျူရီတန်တို့၏ ဩဇာအောက်တွင် ကြီးပြင်းလာခဲ့ရလေသည်။ သို့ရာတွင် သူသည် လူတို့၏ အတွင်းစိတ်နေသဘောသဘာဝကို မကွယ်မဝှက်ပဲ နှိုက်နှိုက်ချွတ်ချွတ် ထုတ်ဖော်ရေးသားခဲ့သဖြင့် ကမ္ဘာကျော်စာဆိုတဦးအဖြစ် ထင်ရှားခဲ့လေသည်။

နသနီယယ်ဟောသွန်းသည် ၁၈၀၄ ခုနှစ် ဇူလိုင်လ ၄ ရက်နေ့တွင် မက်ဆာချူးဆက်ပြည်နယ်၊ ဆေးလမ်းမြို့၌



အမေရိကန်လူမျိုး စာရေးဆရာ နသနီယယ် ဟောသွန်း

ဖွားမြင်သည်။ လေးနှစ်သားအရွယ်တွင် ဖခင်ကွယ်လွန်သဖြင့် မိခင်လည်း လူမမယ် သားငယ်နှင့် ပူဆွေးဒုက္ခရောက်ခဲ့ရ လေသည်။ ဟောသွန်းသည် ငယ်စဉ်ကစ၍ ဖတဆိုး သားတယောက် ဖြစ်ခြင်းကြောင့် အထီးတည်းသာ နေလေ့ရှိသည်။ စာဖတ်ဝါသနာပါသဖြင့် ဂျွန် ဗန်ညန်၏ ပီးသဂရင်း ပရိုဂရက်၊ ရှိတ်စပီးယား၏ ပြဇာတ်များ၊ မီလတန်၏ ကဗျာများကို အထူးဖတ်ရှုလေ့လာသည်။

၁၈၂၁ ခုနှစ်တွင် ဟောသွန်းသည် မိန်းပြည်နယ်ရှိ ဗိုးဒွိုင်းကောလိပ်ကျောင်းသို့ တက်ရောက်၍ ပညာသင်ကြားခဲ့ရာ၊ ၁၈၂၅ ခုနှစ်၌ ကျောင်းထွက်ခဲ့သည်။ ကောလိပ်ကျောင်းတွင် နာမည်ကျော် ကဗျာစာဆို အိပ် ဒဗျူ လောင်းဖဲလိုးနှင့်၎င်း၊ နောင်အခါ အမေရိကန်နိုင်ငံ၏ သမတဖြစ်မည့် ဖရန်ကလင် ပီးယား(စ)နှင့်၎င်း မိတ်ဆွေဖြစ်ခဲ့လေသည်။ ဟောသွန်းသည် ကျောင်းထွက်ပြီးနောက် ၁၀ နှစ်ကျော်မျှ ပြင်ပလောကနှင့် အဆက်အဆံ ကင်းလျက် နေထိုင်ခဲ့သည်။ ထိုကာလအတွင်း စာအမြောက်အမြား ရေးသားခဲ့သော်လည်း မည်မည်ရရ ဟူ၍ "ပုံတိုများ" စာအုပ် (၁၈၃၇) ကိုသာ ပုံနှိပ်ထုတ်ဝေနိုင်ခဲ့လေသည်။

ဟောသွန်းသည် ၁၈၃၉ ခုနှစ်မှ ၁၈၄၁ ခုနှစ်အထိ ဗော့စတန်မြို့ရှိ အကောက်ရုံးတွင် ဝင်ရောက် အမှုထမ်းသည်။ ထိုနောက် နယူးအင်္ဂလန်မှ ဒဿနိကဗေဒပညာရှင်တစုနှင့်အတူ "ဗရွတ်ဖမ်း" ခေါ် အရပ်တွင် စုပေါင်းနေထိုင်မှု စံနစ်ကို တနှစ်ခန့် လက်တွေ့စမ်းသပ် ကျင့်သုံးခဲ့သည်။ ၁၈၄၂ ခုနှစ်တွင် ဆိုဖီယာ ပီးဗော်ဒီဆိုသူနှင့် ထိမ်းမြား လက်ထပ်ပြီးလျှင် မက်ဆချူးဆက်ပြည်နယ်၊ ကွန်းကော့မြို့တွင် "အိုးမန့်(စ)" အမည်ရှိအိမ်၌ နေထိုင်လေသည်။ ထိုအိမ်၌ နေထိုင်စဉ် စာအုပ်များကို ရေးသားထုတ်ဝေခဲ့သော်လည်း စီးပွားရေး မချောင်လည်သဖြင့် ဆေးလမ်းမြို့သို့ ပြောင်းရွှေ့ခဲ့ပြီးနောက် အကောက်ရုံး၌ ဝင်ရောက်အမှုထမ်းရလေသည်။

ဟောသွန်းသည် ပျူရီတန် ဩဇာအောက်တွင် ကြီးပြင်းရသူဖြစ်သည့်အားလျော်စွာ ၁၈၅၀ ပြည့်နှစ်တွင်ပုံနှိပ်ထုတ်ဝေသော "သည်စကားလက် လက်တား" ခေါ် ဝတ္ထုစာအုပ်တွင် လူလောကအဖြစ်အပျက်နှင့် စပ်လျဉ်း၍ မိမိ၏ အယူအဆကို ပွင့်လင်းပြတ်သားစွာ ထုတ်ဖော်ရေးသားခဲ့လေသည်။ ထိုဝတ္ထုသည် ဟောသွန်း၏ အကောင်းဆုံးလက်ရာဖြစ်၍ ထိုစာအုပ်ဖြင့်ပင် နာမည် ထင်ရှားလာလေသည်။ ထိုနောက် "မြင်းမိုရ်ခုနစ်ဖက်ဂိတ်အိမ်"၊ "တင်းဂဲဝုဒ် ပုံပြင်များ" အစရှိသော ထင်ရှားသည့် စာအုပ်များကို ဆက်လက်ရေးသား ထုတ်ဝေခဲ့သည်။

၁၈၅၃ ခုနှစ်တွင် သမတပီးယား(စ)က ဟောသွန်းကို ကောင်စစ်ဝန်ခန့်၍ အင်္ဂလန်နိုင်ငံ၊ လီဗာပူးမြို့သို့ စေလွှတ်ခဲ့သည်။ ထိုရာထူးတွင် လေးနှစ်အမှုထမ်းပြီးနောက် ဣတလီနိုင်ငံ၌ တနှစ်ကျော်မျှ နေထိုင်သည်။ ၁၈၆၀ ပြည့်နှစ်တွင် အမေရိကန်နိုင်ငံသို့ ပြန်လာသည်။ ထိုနောက် ကျန်းမာရေးချွတ်ယွင်းလာရာ နသနီယယ် ဟောသွန်းသည် ၁၈၆၄ ခုနှစ် မေလ ၁၉ ရက်နေ့တွင် နယူးဟမ့်ရှိုင်းယားပြည်နယ်၊ ပလင်းမတ်မြို့၌ ကွယ်လွန်လေသည်။

**ဟောသွန်းပင်။** ။မွှေးကြိုင်သည့် အဖြူ၊ ပန်းရောင်၊ သို့မဟုတ် အနီရောင် ပန်းပွင့်များ ပွင့်လေ့ရှိသော ဟောသွန်းပင်သည် ဆူးရှိသောချုံပင်၊ သို့မဟုတ် သစ်ပင်ဖြစ်လေသည်။ အင်္ဂလိပ်ဟောသွန်းပင် ရိုးရိုးသည် ခြံစည်းရိုးအလုပ်များသည့် အပင်ငယ်ဖြစ်သည်။ အင်္ဂလန်နိုင်ငံတွင် မေလ၌ ဟောသွန်းပင်များ ပန်းပွင့်ကြသဖြင့် လုပသောကြောင့် လူကြိုက်များသည်။ မြို့ကြီးများရှိ ဆင်ခြေဖုံးရပ်ကွက်များသည် ထိုအချိန်၌ ဟောသွန်းပန်းပွင့်များကြောင့် ဖြူဖွေးလျက် ရှိတတ်လေသည်။ မေလအတွက် ဟောသွန်းပန်းပွင့်များသည် အထူးပန်းများ ဖြစ်ကြလေသည်။ အင်္ဂလန်နိုင်ငံမှ စာဆိုတော်ကြီးများက ဟောသွန်းပင်ကို အမျိုးမျိုး စာဖွဲ့ကြလေသည်။



ရိုဧေးဒိအိးခေါ် နှင်းဆီမျိုးရင်းဝင်ဖြစ်သော ဟောသွန်းပင်

ဥရောပတိုက် တတိုက်လုံး၊ အာဖရိကတိုက်မြောက်ပိုင်းနှင့် အာရှတိုက် အနောက်ပိုင်းတို့တွင် ဟောသွန်းပင်များသည် အလေ့ကျပေါက်လေ့ရှိကြလေသည်။ ထိုအပင်သည်များသောအားဖြင့် ၂၅ ပေအထိ မြင့်တတ်သဖြင့် သစ်ပင်ကြီးထက် ချုံပင်နှင့်ပို၍ နှယ်လေသည်။ လှပသည့်အရွက်များ ထူထပ်စွာပေါက်လေ့ရှိပြီးလျှင် နွေဦးရာသီ စောစောပိုင်း၌ မွှေးကြိုင်သည့် ပန်းပွင့်များကို ပွင့်လေ့ရှိကြသည်။ ထိုပန်းပွင့်များ၏ အရောင်မှာ များသောအားဖြင့် အဖြူရောင် ဖြစ်သော်လည်း တခါတရံတွင် ပန်းရောင်သန်းနေသည်ကို တွေ့ရတတ်သည်။

အင်္ဂလန်နိုင်ငံတွင် ပေါက်ရောက်သည့် ဟောသွန်းပင်မှ ဆောင်းကူးရာသီ၌ များသောအားဖြင့် အနီရောင်ရှိသော အသီးများ သီးလျက်ရှိသည်မှာ ကြည့်ရှု၍ကောင်းလေသည်။ အသီးများတွင် အစေ့မာများ ရှိကြလေသည်။ ပန်းများအများ နွေကူးရာသီတွင်သာ ပွင့်ကြသည်။ အလေ့ကျပေါက်သော ဟောသွန်းပင်များအပြင် ဥယျာဉ်များတွင်စိုက်ပျိုးယူသည့် ဟောသွန်းပင်များလည်း ရှိသေးသည်။ ထိုအပင်များသည် ခရစ္စမတ်(နာတာလူး) ပွဲတော်အချိန်တွင် ပန်းများပွင့်လေ့ရှိသည်။

အမေရိကန်ပြည်ထောင်စုတွင် ဟောသွန်းပင် မျိုးစိတ်ပေါင်း မြောက်မြားစွာရှိရာ မျိုးစိတ်တခုမှာ လှပသည့် မွှေးနံ့များ ရှိသော ဟောသွန်းပင် ဖြစ်သည်။ ထိုအပင်သည် အပင်ငယ်ဖြစ်ပြီးလျှင် ယင်း၌ ကွေ့ကောက်ကာ ဖြာထွက်နေသည့် အကိုင်းများ ရှိသည်။ ပန်းပွင့်တို့၏ အရောင်မှာ အဖြူရောင်ဖြစ်သည်။ အသီးများ၏အရောင်မှာ တောက်ပသည့် လိမ်မော်ရောင်သန်းနေသော အနီရောင်ဖြစ်သည်။ နွေရာသီနောက်ပိုင်းတွင် အသီးမှည့်ကြပြီးလျှင် စက်တင်ဘာလတွင် အောက်သို့ ကြွေကျကုန်ကြသည်။ ထိုအသီးများတွင် ကောင်းမွန်သည့် အနံ့အရသာရှိကြသဖြင့် တခါတရံ ထိုအသီးများကို ယိုထိုးရာတွင်အသုံးပြုကြလေသည်။ ထိုအပင်မျိုးသည် ပိုးကောင်တို့၏ ဖျက်ဆီးခြင်းကို ရုတ်တရက် မခံရသည့်အပြင် လှပသည့်အပွင့်များ၊ အရွက်များနှင့် အသီးများရှိသဖြင့် မြက်ခင်းများတွင် စိုက်ပျိုးရန်အတွက် အကောင်းဆုံးသော အပင်တမျိုးဖြစ်လေသည်။

အမေရိကန် ပြည်ထောင်စုတွင် ပေါက်ရောက်သည့် အခြား ဟောသွန်းပင်တမျိုးမှာ ကော့စပါး၊ သို့မဟုတ် ကော့စပါးသွန်း ဖြစ်သည်။ တခါတရံတွင် ထိုအပင်သည် ၂၅ ပေမြင့်တတ်ပြီးလျှင် ယင်း၌ ရှည်ပြီးလျှင် ဖြောင့်သည့်ဆူးများ ရှိလေသည်။ အမေရိကန် ပြည်ထောင်စု၊

အရှေ့မြောက်ပိုင်းနှင့် ဥရောပတိုက်တို့တွင် ဟောသွန်းပင်မျိုးကို အလှအပ စိုက်ပျိုးကြသည်။

ဟောသွန်းပင်သည် ရိုဇေးစီအီးခေါ် နှင်းဆီမျိုးရင်းဝင်ဖြစ်သည်။ အင်္ဂလန်နိုင်ငံတွင် ပေါက်ရောက်သည့်ဟောသွန်းပင်မျိုးကို ရုက္ခဗေဒအလိုအားဖြင့် ကရေတီးဂပ် အောက်ဆီယကန်သာဟု ခေါ်၍ မွေးနုများရှိသော ဟောသွန်းပင်မျိုးကိုမူ ကရေတီးဂပ် မောလစ္စဟု ခေါ်သည်။ ကော့စပါးဟောသွန်းမျိုးကိုမူ ကရပ်ဂယ်လီဟူ၍ ခေါ်ကြလေသည်။

**ဟိုချီမင်း** (ခရစ် ၁၈၉၀–၁၉၆၉)။ ။ ဗီယက်နမ် ဒီမိုကရက်တစ် သမတနိုင်ငံ၏ ပဌမဦးဆုံးသော သမတကို ခရစ်နှစ် ၁၉၄၅ ခု၊ ဩဂုတ်လ ၂၂ ရက်နေ့တွင် ရွေးကောက်တင်မြှောက်ခဲ့၏။ ထိုစဉ် သမတအဖြစ် ရွေးကောက်တင်မြှောက်ခံရသူ ပုဂ္ဂိုလ်ကြီးက "ကျွန်တော့်ကို သမတရွေးလိုက်တာ အကြောင်းရှိပါတယ်။ ကျွန်တော့်မှာ ဘာမှမရှိလို့ပါပဲ။ ကျွန်တော့်မှာ သားမယားလဲမရှိဘူး။ အိမ်လဲမရှိဘူး၊ ရွှေငွေပစ္စည်း ဥစ္စာလဲမရှိဘူး၊ အဝတ်အထည်ဆိုလို့လဲ ဟောဒီ အခုဝတ်ထားတဲ့ ခြည်ဝတ်စုံ တစုံပဲ ရှိပါတယ်"ဟု ပြောကြားခဲ့လေသည်။ ထို ပုဂ္ဂိုလ်ကြီးကားဟိုချီမင်း ဖြစ်၏။

ဟိုချီမင်းကို ခရစ်နှစ် ၁၈၉၀ ပြည့် မေလ ၁၉ ရက်နေ့တွင် ဗီယက်နမ်နိုင်ငံ အလယ်ပိုင်း ငဲအန်ပြည်နယ်အတွင်းရှိ ကင်လီယင်ရွာကလေး၌ ဖွားမြင်သည်။ အဖမှာ ငုယင် စင်းစက်ဖြစ်၍ အမိမှာ ဟွန်သီလုန်ဖြစ်၏။ မွေးချင်းသုံးယောက်တွင် ဟိုချီမင်းသည် အထွေးဆုံး ဖြစ်ပေသည်။ ဟိုချီမင်း၏ ပဌမဆုံးသော ငယ်နာမည်မှာ ငုယင် စင်းကွန် ဖြစ်၏။ အသက် ၁၀ နှစ်သားအရွယ်တွင် သူ၏မိဖများက ဗီယက်နမ် ဓလေ့ဆုံးစံအတိုင်း ငယ်နာမည် ငုယင် စင်းကွန်မှ ကြီးနာမည် ငုယင် တတ်သန်သို့ ပြောင်းလဲ မှည့်ခေါ်ခဲ့သည်။

ဟိုချီမင်း ၁၀ နှစ်သားအရွယ်တွင် မိခင် သေဆုံးခဲ့ရာ ဖခင်၏ အုပ်ထိန်းမှု အောက်တွင် ကြီးပြင်းခဲ့ရသည်။ ဖခင်မှာ အစိုးရဝန်ထမ်းတဦးဖြစ်၏။

ထိုစဉ်က ဗီယက်နမ်နိုင်ငံကို ပြင်သစ်တို့ အုပ်စိုးလျက်ရှိရာ ဟိုချီမင်းသည် ငယ်စဉ်ကပင် ပြင်သစ်အစိုးရ၏ ဖိနှိပ်ညှဉ်းပန်းမှုများကို မျက်ဝါးထင်ထင် တွေ့မြင်ခဲ့ရသည်။ ထို့ကြောင့် ငယ်စဉ်ကတည်းကပင် ဗီယက်နမ် လွတ်လပ်ရေးအတွက် စိတ်အားထက်သန်ခဲ့ပေသည်။

ဟိုချီမင်း အသက်ခုနစ်နှစ်သားအရွယ်တွင် ပညာစတင်သင်ကြားခဲ့၏။ ၁၆ နှစ်သားအရွယ်တွင် ပြင်သစ်စာပေကို လေ့လာဆည်းပူးခဲ့သည်။ ကျောင်းသား အရွယ်ကတည်းကပင် ဖခင်ကိုယ်တိုင် ပါဝင်သော ဗီယက်နမ် ပညာတတ်



ဗီယက်နမ်ဒီမိုကရက်တစ်သမတနိုင်ငံ၏ ပဌမဆုံး သမတ ဟိုချီမင်း

မျိုးချစ်ပုဂ္ဂိုလ်များ၏ ပြင်သစ်ဆန့်ကျင်ရေး လှုပ်ရှားမှုကြီးတွင် ဆက်သားအဖြစ် တာဝန်ယူခဲ့၏။ ထို့နောက် ဖခင်ဖြစ်သူမှာ အလုပ်မှ အထုတ်ခံရသဖြင့် ဟိုချီမင်းသည် ကျောင်းဆရာလုပ်ရင်း အိမ်ဆောင့် တာဝန်ကို ထမ်းဆောင်ခဲ့လေသည်။ မကြာမီ ကျောင်းဆရာအလုပ်မှထွက်ကာ စက်မှုလက်မှု ကျောင်းသို့ တက်ရောက်၍ စက်မှုပညာ သင်ကြားပြန်၏။

ထိုအချိန်၌ ဟိုချီမင်း၏ ရင်ဝယ် နယ်ချဲ့ ဆန့်ကျင်ရေးစိတ်ဓာတ်များ၊ ဗီယက်နမ် လွတ်လပ်ရေးအတွက် ဆောင်ရွက်လိုသော စိတ်ဓာတ်များ ကိန်းအောင်း နေချေပြီ။ ဗီယက်နမ် လွတ်လပ်ရေးအတွက် ဆောင်ရွက်နိုင်ရေးမှာ ကမ္ဘာ့နိုင်ငံရေး ဗဟုသုတကြွယ်ဝမှု ဖြစ်မည် ဟူ၍လည်း စွဲမြဲစွာ ယုံကြည်လျက် ရှိပေသည်။ ထို့ကြောင့် ၁၉၁၁ ခုနှစ် အောက်တိုဘာလအတွင်းတွင် တိုင်းပြည် လွတ်လပ်ရေး ကြိုးပမ်းရန် နိုင်ငံခြား ဗဟုသုတ ရှာရေးအတွက် ဟိုချီမင်းသည် ပြင်သစ် ပင်လယ်ကူး သင်္ဘောတစင်းပေါ်တွင် ထမင်းချက် ရိက္ခာဌာနအလုပ်သမားအဖြစ် လိုက်ပါရင်း ပြင်သစ်နိုင်ငံသို့ ထွက်ခွာခဲ့လေသည်။ ထိုအခိုက်တွင် သူ၏အမည်ကို ဗ ဟူ၍ ပြောင်းလဲထား၏။

ပြင်သစ်နိုင်ငံသို့ ရောက်သောအခါ ပြင်သစ် အရာရှိ

တဦး၏ အိမ်တွင် အစေခံလုပ်ရင်း ဝမ်းရေးကို ဖြေရှင်းခဲ့သည်။ အခြေခံမျှသာ တတ်မြောက်ထားသော ပြင်သစ်စကားကိုလည်း ဆက်လက် သင်ကြားခဲ့သည်။ ထိုနောက် အစေခံအလုပ်မှထွက်ကာ ပြင်သစ် ကုန်တင်သင်္ဘောတစင်းတွင် သင်္ဘောသားအဖြစ် လိုက်ပါဆောင်ရွက်ရင်း အာဖရိကနှင့် မြောက်အမေရိကတိုက်များသို့ ရောက်ရှိခဲ့၏။ ၁၉၁၃ ခုနှစ်တွင် ပြင်သစ်နိုင်ငံသို့ ပြန်လည်ရောက်ရှိခဲ့၏။ ထိုနောက် ပြင်သစ်နိုင်ငံမှ အင်္ဂလန်နိုင်ငံသို့ ခရီးဆက်ပြန်လေသည်။ အင်္ဂလန်နိုင်ငံသို့ရောက်သော် အမှိုက်လှဲသမား၊ ဘွိုင်လာအိုး မီးထိုးသူ စသည်ဖြင့် ကြုံရာအလုပ်ကိုလုပ်ရင်း ပညာဆည်းပူးလေ့လာခဲ့သည်။ အင်္ဂလိပ်စာကိုလည်း သင်ကြားခဲ့၏။

ပဌမ ကမ္ဘာစစ်ကြီး ဖြစ်ပွားသောအခါ ဟိုချီမင်းသည် ငုယင် အိုက်ကုတ် အမည်ဖြင့် ပြင်သစ်နိုင်ငံသို့ ပြန်လည် ရောက်ရှိသွားသည်။ ပဌမကမ္ဘာစစ်ကြီးအပြီး ၁၉၁၉ ခုနှစ်တွင် ဗာဆေး စစ်ပြေငြိမ်းရေးကွန်ဖရင့်သို့တက်ရောက်ကာ ဗီယက်နမ်နိုင်ငံအတွက် လိုလားချက်များကို တောင်းဆိုခဲ့သေးသော်လည်း မရရှိခဲ့ပေ။ သို့သော် ထိုတောင်းဆိုချက်များကို ပုံနှိပ်ကာ လူအများ သိရှိအောင် ဖြန့်ဝေနိုင်ခဲ့ပေ၏။

ထိုအချိန်မှစ၍ ဟိုချီမင်းသည် ဗီယက်နမ်နိုင်ငံ လွတ်လပ်ရေးအတွက် နိုင်ငံရေးအရ စတင် လှုပ်ရှားလေတော့သည်။ ပြင်သစ်နိုင်ငံရှိ ဆိုရှယ်လစ် လူငယ်များအဖွဲ့အစည်းတွင် ပါဝင်ကာ တိုးမြို့တွင် ကျင်းပသော ပြင်သစ်ဆိုရှယ်လစ်ပါတီ ၁၈ ကြိမ်မြောက်ကွန်ဂရက်သို့တက်ရောက်နိုင်ခဲ့သည်။ ယင်းကွန်ဂရက်တွင် စကားပြောဆိုခွင့်လည်း ရရှိခဲ့သည်။

ဟိုချီမင်းသည် ပြင်သစ်နိုင်ငံတွင်း၌ ထုတ်ဝေနေသော သတင်းစာများတွင် ငုယင် အိုက်ကုတ်အမည်ဖြင့် ဆောင်းပါးများ ရေးသားခဲ့သည်။ "ပြင်သစ် ကိုလိုနီစနစ်အပေါ် စွဲချက်တင်ခြင်း"၊ "ဝါးနဂါး"စသည့် စာအုပ်များကိုလည်း ရေးသား ပြုစုခဲ့သည်။ ပြင်သစ်နိုင်ငံသို့ ရောက်ရှိနေသည့် ကိုလိုနီနယ်များမှခေါင်းဆောင်များကို စည်းရုံးကာ ကိုလိုနီနယ်များ အသင်းကိုလည်း ဖွဲ့စည်း တည်ထောင်နိုင်ခဲ့သည်။ ၁၉၂၂ ခုနှစ်တွင် လီ ပါရီယာ ဂျာနယ်ကို တည်ဆောင်ပြီးလျှင် ထိုဂျာနယ်၏ တိုက်အုပ်နှင့် တာဝန်ခံစာတည်းအဖြစ် ဆောင်ရွက်ခဲ့သည်။ ထိုနှစ်မှာပင် ပြင်သစ်ကွန်မြူနစ်ပါတီသို့ ဝင်ရောက်ခဲ့၏။

၁၉၂၃ ခုနှစ် ဒီဇင်ဘာလတွင် ဟိုချီမင်းသည် လီနင်နှင့် တွေ့လိုသဖြင့် ရုရှနိုင်ငံသို့ သွားရောက်ခဲ့သည်။ သို့သော် သူ ရုရှနိုင်ငံသို့ ရောက်သောအခါ လီနင်မှာ ကွယ်လွန်သွားလေပြီ။ သို့ဖြင့် လီနင်ဂရက်နှင့် မောစကိုမြို့များတွင် တလှည့်စီ နေထိုင်ရင်း ရုရှပြည်တွင်းနိုင်ငံရေး အခြေအနေများကို လေ့လာနေလေသည်။ ဆိုဗီယက် ခေါင်းဆောင်များ၏ အကူအညီဖြင့် မောစကိုမြို့ရှိ အရှေ့တိုင်း အလုပ်သမား တက္ကသိုလ်သို့လည်း တက်ရောက်ခွင့်ရခဲ့၏။ ပရာဗဒါ သတင်းစာနှင့် အခြားစာစောင်များတွင်လည်း နိုင်ငံရေး ဆောင်းပါးများ ရေးသားခဲ့ပေသည်။

၁၉၂၄ ခုနှစ် ဇွန်လတွင် မောစကို၌ ကျင်းပပြုလုပ်သည့် ကမ္ဘာ့ ကွန်မြူနစ်အဖွဲ့ချုပ် ပဌမ အကြိမ်မြောက် ညီလာခံသို့ တက်ရောက်ကာ အစီရင်ခံစာ နှစ်စောင် တင်သွင်းခဲ့၏။ ယင်းညီလာခံအပြီးတွင် ဟိုချီမင်းသည် ကမ္ဘာ့ ကွန်မြူနစ်အဖွဲ့ချုပ်၌ အရှေ့တိုင်းဌာနတွင် အမြဲတမ်းကော်မီတီအဖြစ် တာဝန်ပေးအပ်ခြင်း ခံရလေသည်။

၁၉၂၅ ခုနှစ်တွင် ဟိုချီမင်းသည် တရုပ်နိုင်ငံ ကန်တုန်မြို့သို့ သွားရောက်ကာ မစ္စတာဗောင်အမည်ဖြင့် နိုင်ငံရေး သင်တန်းမှူးအဖြစ် ဆောင်ရွက်နေလေသည်။ ထိုအချိန်တွင် ဗီယက်နမ်နိုင်ငံ၌ မျိုးချစ်လူငယ် အများအပြားကို ပြင်သစ်နယ်ချဲ့သမားများက နှိမ်နင်းနေသဖြင့် ဗီယက်နမ်လူငယ်များစွာတို့သည် တရုပ်နိုင်ငံသို့ ရောက်ရှိနေကြ၏။ ဟိုချီမင်းသည် ယင်းလူငယ်များကို စုစည်းကာ တော်လှန်သော ဗီယက်နမ် ရဲဘော် လူငယ်များ အစည်းအရုံးကို ဖွဲ့စည်းလိုက်သည်။ ထိုနောက် အထူးနိုင်ငံရေး သင်တန်းကျောင်းကို ဖွင့်လှစ်ပြီးလျှင် သင်တန်းပို့ချရင်း တဖက်မှလည်း နိုင်ငံရေးစာပေများကို ရေးသား ပြုစုနေခဲ့သည်။ ၁၉၂၇ ခုနှစ် အကုန်တွင် ချန်ကေရှိတ် တပ်သားများက လိုက်လံဖမ်းဆီးသဖြင့် ရှောင်တိမ်း ပြေးလွှားနေခဲ့ရ၏။ ၁၉၂၈ ခုနှစ်တွင် မောစကိုသို့ ပြန်လည် ရောက်ရှိပြီးနောက် ထိုမှတဖန် ဗဲလဂျီယမ်၊ ပြင်သစ်၊ ဂျာမနီ၊ ဆွစ်ဇာလန်၊ ဣတလီ စသည့် နိုင်ငံများသို့ လှည့်လည်သွားရောက်ကာ ကွန်မြူနစ် လှုပ်ရှားမှုများကို လေ့လာနေခဲ့၏။ ထိုနောက် ၁၉၂၈ ခုနှစ် နိုဝင်ဘာလတွင် ထိုင်းနိုင်ငံသို့ သွားရောက်နေထိုင်ပြီးသော် မစ္စတာချင် အမည်ကို ခံယူကာ ထိုင်းနိုင်ငံတွင်းရှိ ဗီယက်နမ် တိုင်းရင်းသားများကို စည်းရုံးလှုံ့ဆော် နေခဲ့၏။ ၁၉၃၀ ပြည့်နှစ် ဖေဖော်ဝါရီလတွင် ဟောင်ကောင်သို့ တိတ်တဆိတ် သွားရောက်ကာ ဗီယက်နမ် ကွန်မြူနစ် ပါတီကို တည်ထောင်ခဲ့သည်။ ထိုနောက် တုန်ဗန်ဆိုဟူသည့် နာမည်သစ်ဖြင့် ဟောင်ကောင်တွင် ဆက်လက် နေထိုင်ကာ ဗီယက်နမ်နိုင်ငံရှိ တိုက်ပွဲဝင်နေသူများကို ဟောင်ကောင်မှ ညွှန်ကြားနေလေသည်။ ၁၉၃၀ ပြည့်နှစ် ဩဂုတ်လတွင် ရှန်ဟိုင်းသို့ သွားရောက်ကာ ဗီယက်နမ် ကွန်မြူနစ်ပါတီဝင်များနှင့် တွေ့ဆုံဆွေးနွေးပြီးလျှင် ဗီယက်နမ် ကွန်မြူနစ် ပါတီကို အင်ဒိုချိုင်းနား ကွန်မြူနစ်ပါတီဟူ၍ အမည်ပြောင်းလဲလိုက်၏။ ထိုနောက် ဟောင်ကောင်သို့ ပြန်သွားခဲ့လေသည်။

၁၉၃၁ ခုနှစ်တွင် ဟိုချီမင်းကို ဟောင်ကောင် ပုလိပ်များက ဖမ်းမိသွားပြီးလျှင် နိုင်ငံရေး အကျဉ်းသားတဦး အဖြစ် ချုပ်နှောင်ထားလိုက်သည်။ အချုပ်ကျနေစဉ် နေမကောင်းသဖြင့် ဆေးရုံတက်ရသေး၏။ ဆေးရုံ၌ ဆေးကုသနေစဉ် ဟိုချီမင်းသည် ရုတ်တရက် ပျောက်ဆုံးသွားလေသည်။ ထိုအခါ ဟိုချီမင်း သေဆုံးသွားပြီဟု အများက ယူဆလိုက်ကြ၏။ အဖြစ်မှန်ကား ဟိုချီမင်းသည် ရှေ့နေ တယောက်၏ အကူအညီဖြင့် ဆေးရုံမှ ထွက်ပြေးလာခဲ့ခြင်း ဖြစ်ပြီးလျှင် အမွိုင်ကျွန်းတွင် ခြောက်လခန့် နေထိုင်ကာ ဆေးဝါးကုသနေခဲ့၏။ ထို့မှတဖန် ၁၉၃၂ ခုနှစ်တွင် ဟိုချီမင်းသည် ရှန်ဟိုင်းမြို့သို့ တိတ်တဆိတ် ရောက်ရှိလာပြီးနောက် ဗီယက်နမ် မြေအောက်တော်လှန်ရေး သမားများနှင့် ပြန်လည် ဆက်သွယ်ခဲ့သည်။ ၁၉၃၃ ခုနှစ်တွင် ရုရှနိုင်ငံသို့ သွားရောက်ပြီးသော် မောစကိုမြို့တွင် ခေတ္တနေထိုင်ခဲ့၏။ ထိုစဉ်တွင် သတ္တမအကြိမ်မြောက် နိုင်ငံတကာ ကွန်မြူနစ် ညီလာခံသို့လည်း တက်ရောက်ခဲ့သေးသည်။ ထို့မှတဖန် တရုပ်နိုင်ငံသို့ ဆက်လက် သွားရောက်ခဲ့၍ ၁၉၄၁ ခုနှစ်တွင် ဗီယက်နမ်သို့ ပြန်လည် ရောက်ရှိသွားလေသည်။ ဗီယက်နမ်မြေပေါ်သို့ ပြန်လည် ရောက်ရှိသောအခါ ဟိုချီမင်းဟူသည့် အမည်ကို အတိအလင်း ခံယူလိုက်လေတော့သည်။ ထိုနောက် ဗီယက်မင်း အမည်ရှိ ဗီယက်နမ်လွတ်လပ်ရေး အဖွဲ့ကြီးကို တည်ထောင် ဖွဲ့စည်းခဲ့၏။

ဒုတိယ ကမ္ဘာစစ်ကြီး အတွင်းတွင် ဟိုချီမင်းသည် ဖက်ဆစ် တော်လှန်ရေးအတွက် လက်နက်ရှာဖွေစုဆောင်းရန် တရုပ်နိုင်ငံသို့ ထွက်လာခဲ့သည်။ တရုပ်နိုင်ငံတွင် ရှိနေစဉ် ကူအိုမင်တန် ပုလိပ်များ၏ ဖမ်းဆီးခြင်းကို ခံခဲ့ရ၏။ ထောင်တွင်း၌ အကျဉ်းကျနေစဉ်အတွင်း "အကျဉ်းထောင်မှတ်တမ်း" အမည်ဖြင့် ကဗျာများ ရေးစပ်ခဲ့ပေသည်။ ၁၉၄၄ ခုနှစ်တွင် ထောင်မှ လွတ်မြောက် လာပြီးသော် ဗီယက်နမ်သို့ ပြန်လာခဲ့လေသည်။ ဗီယက်နမ်မြေပေါ်တွင် လက်နက်ကိုင် တော်လှန်ရေး ဆက်လက် ဆင်နွှဲပြီးနောက် ၁၉၄၅ ခုနှစ် စက်တင်ဘာလတွင် ဗီယက်နမ် ဒီမိုကရက်တစ် သမတနိုင်ငံကို တည်ထောင်ကာ လွတ်လပ်ရေး ကြေညာနိုင်ခဲ့၏။ ဟိုချီမင်းသည် ပဌမဦးဆုံး သမတအဖြစ် ရွေးကောက် တင်မြှောက်ခြင်း ခံရ၏။

များမကြာမီ ပြင်သစ်တို့က ဆိုင်ဂုံမြို့ကို ဝင်ရောက် ကျူးကျော် တိုက်ခိုက်သဖြင့် ဟိုချီမင်း ဦးဆောင်သော ဗီယက်နမ်တပ်မတော်က ပြန်လည် ခုခံရသည်။ ပြင်သစ်တို့နှင့် သဘောတူညီမှုရသဖြင့် မကြာခင် စစ်ပြီးသွားသော်လည်း ပြင်သစ်တို့က စတင် ချိုးဖောက်ကာ ၁၉၄၆ ခုနှစ် ဒီဇင်ဘာလတွင် ဟနွိုင်မြို့ကို ဝင်ရောက် တိုက်ခိုက်ပြန်သဖြင့် ထပ်မံစစ်ဖြစ်ပွားရသည်။ ၁၉၅၁ ခုနှစ်တွင် ဟိုချီမင်းသည် ကွန်မြူနစ်ပါတီ ညီလာခံကို ခေါ်ယူ ကျင်းပပြီးလျှင် ဗီယက်နမ် ကွန်မြူနစ်ပါတီကို ဗီယက်နမ် အလုပ်သမားပါတီဟု အမည်ပြောင်းလဲလိုက်၏။ ဟိုချီမင်းမှာ ဗဟိုကော်မီတီ၏ ဥက္ကဋ္ဌအဖြစ် အရွေးခံရသည်။ ၁၉၅၄ ခုနှစ်တွင် ပြင်သစ်တို့တပ်စွဲထားသော ဒင်ဗင်ဖူးကို ဟိုချီမင်း ဦးစီးသော ဗီယက်နမ် ပြည်သူ့ တပ်မတော်က ထိုးစစ်ဆင်ရာ ပြင်သစ်တို့ အရေးနိမ့်ခဲ့ရသည်။ အင်ဒိုချိုင်းနား ဒေသဆိုင်ရာ ဂျီနီဗားညီလာခံအပြီးတွင် ပြင်သစ်တို့လည်း ဗီယက်နမ်မြေမှ ထွက်ခွာခဲ့ကြရ၏။ ၁၉၆၀ ပြည့်နှစ်တွင် ဗီယက်နမ် မြေပေါ်တွင် အမေရိကန် နယ်ချဲ့သမားတို့ ဝင်ရောက် ကျူးကျော်သဖြင့် ဟိုချီမင်း ဦးဆောင်သော ဗီယက်နမ် ပြည်သူများသည် အစွမ်းကုန် ခုခံကာကွယ်ခဲ့ကြရလေသည်။ သို့သော် ဗီယက်နမ်–အမေရိကန်စစ်ပွဲကား ယနေ့တိုင် မပြီးဆုံးသေးချေ။

သမတဟိုချီမင်းကား အနေအထိုင် ရိုးသားသူဖြစ်၏။ သူသမတဖြစ်ချိန်တွင် သူပိုင်ပစ္စည်းဟူ၍ ကာကီဝတ်စုံတစုံ ရော်ဘာ ဖိနပ်တရံနှင့် နေစားထားသော ဦးထုပ်တလုံးသာ ရှိလေသည်။ သူသည် ဗီယက်နမ်နိုင်ငံနှင့် ဗီယက်နမ်ပြည်သူတို့၏ အကျိုးကိုသာ ဦးထိပ်ထားသူဖြစ်၏။ သူ၏ကိုယ်ရေးကိုယ်တာများကို လုံးဝမစဉ်းစား။ အိမ်ထောင်ပင် မပြုခဲ့ပေ။ ဟိုချီမင်းသည် ဗီယက်နမ် လွတ်လပ်ရေးနှင့် နယ်ချဲ့ဆန့်ကျင်ရေးအတွက် ပင်လယ်ရပ်ခြားတွင် နှစ်ပေါင်း ၃၀ ခန့် လှည့်လည်နေထိုင်ခဲ့သည်။ အမည်အမျိုးမျိုးကိုလည်း ခံယူခဲ့သည်။ နောက်ဆုံးတွင်မှ "အလင်းရောင်ပေးသူ" ဟူ၍ အနက်ရသော ဟိုချီမင်းအမည်ကို ခံယူခဲ့ခြင်း ဖြစ်၏။ ဟိုချီမင်းသည် ပင်ရင်း ဗီယက်နမ်ဘာသာကိုသာမက အင်္ဂလိပ်၊ ပြင်သစ်၊ ရုရှ၊ ဂျာမနီ၊ တရုပ် စသည့် နိုင်ငံခြား ဘာသာများကိုလည်း ကျွမ်းကျင်စွာ ရေးနိုင်၊ ဖတ်နိုင်၏။ ဟိုချီမင်းကား နိုင်ငံရေး ခေါင်းဆောင်တဦးဖြစ်သည်သာ မက စာရေးဆရာ၊ သတင်းစာဆရာနှင့် ကဗျာဆရာတဦး လည်း ဖြစ်ပေသည်။ ဗီယက်နမ် ပြည်သူများက သူ့အား ချစ်ခင် ရင်းနှီးစွာဖြင့် "ဦးလေးဟို" ဟု ခေါ်ကြ၏။

သမတ ဟိုချီမင်းသည် အမေရိကန်၏ ကျူးကျော်စစ်ကို ခုခံတော်လှန်ရေး၊ ဗီယက်နမ် လုံးဝလွတ်မြောက်ရေး အတွက် ကြိုးပမ်းလျက်ရှိစဉ် ၁၉၆၉ ခုနှစ် စက်တင်ဘာလ ၃ ရက်နေ့ ဟနွိုင်စံတော်ချိန် နံနက် ၉ နာရီ ၄၇ မိနစ်တွင် နှလုံးရောဂါဖြင့် ကွယ်လွန်ခဲ့ပေသည်။ ဟိုချီမင်း၏ဈာပန အခမ်းအနားကို နိုင်ငံတော် ဈာပနအဖြစ် စက်တင်ဘာလ ၃ ရက်မှ ၉ ရက်အထိ ပြင်ဆင်ထားရှိစဉ် ကမ္ဘာ့နိုင်ငံ အသီးအသီးမှခေါင်းဆောင်များ လာရောက်အလေးပြုကြ

သည်။ စက်တင်ဘာလ ၉ ရက်နေ့တွင် ဟိုချီမင်း၏ရုပ်အလောင်းကို အခမ်းအနားဖြင့် သဂြိုဟ်ခဲ့၏။

ဟိုချီမင်းသည် ၁၉၆၉ ခုနှစ် မေလ ၁၀ ရက်နေ့က သေတမ်းစာတစောင် ရေးသားထားခဲ့ရာ သေတမ်းစာတွင် "ကျွန်ုပ် ကွယ်လွန်ပြီးနောက် ပြည်သူလူထုအတွက် အချိန်ကုန် ငွေကုန်မဖြစ်ရလေအောင် ပကာသန ဈာပနအခမ်းအနားအဖြစ် မလုပ်ရစ်ကြပါလေနှင့်" စသည်ဖြင့် ဖော်ပြပါရှိ၏။

သမတကြီး ဟိုချီမင်း ကွယ်လွန်သွားပြီ ဖြစ်သော်လည်း ဗီယက်နမ်ပြည်သူအပေါင်းတို့ကား သူတို့ချစ်သော ဦးလေးဟိုကို ဘယ်သောအခါမျှ မေ့နိုင်ကြမည်မဟုတ်ပေ။

**ဟိုနိုလူလူမြို့။** ။ဟိုနိုလူလူ မြို့သည် ဟဝိုင်းယန်းကျွန်းစု၏ မြို့တော်ဖြစ်၍ ထိုကျွန်းစုတွင် အပါအဝင်ဖြစ်သော အိုအားဟူးကျွန်း အနောက်တောင်ဖက် ကမ်းခြေ၌ တည်ရှိသည်။ ပစိဖိတ်သမုဒ္ဒရာဖက်တွင် ဖြတ်သန်းသွားလာလျက်ရှိသော သင်္ဘောအားလုံးနီးပါးမျှ ဟိုနိုလူလူ ဆိပ်ကမ်း၌ ဝင်ရောက်ဆိုက်ကပ်ကြသည် ဖြစ်သောကြောင့် ဟဝိုင်းယန်းကျွန်းစုတွင် အကြီးဆုံးဆိပ်ကမ်းမြို့လည်းဖြစ်သည်။ ဟိုနိုလူလူမြို့အနောက်ဖက် ခြောက်မိုင်ခန့်အကွာတွင် အမေရိကန်ရေတပ်စခန်းတည်ရာဖြစ်သော ပုလဲဆိပ်ကမ်း(ပါးလဟာဗာ)ရှိသည်။(ပါးလဟာဗာလည်း — ရှု။)

ဟိုနိုလူလူမြို့သည် အမေရိကတိုက်ရှိ မြို့ကြီးများနှင့် မခြား ခေတ်မှီအဆောက်အအုံများ၊ လမ်းမကျယ်များ၊ သပ်ရပ်သော လူနေရပ်ကွက်များဖြင့် စည်ကားသော မြို့ကြီးဖြစ်သည်။ ရေကြောင်းခရီးနှင့် လေကြောင်းခရီး လမ်းဆုံရာ ဖြစ်ခြင်းကြောင့် လူအမျိုးမျိုးကို တွေ့ရှိနိုင်သည်။ အထူးသဖြင့် သဘာဝရှုခင်းသာယာ၍ ရာသီဥတု သင့်တင့်ကောင်းမွန်သောမြို့ဖြစ်ရာ နိုင်ငံအများမှ ဧည့်သည်များ လာရောက်လည်ပတ်လေ့ ရှိသည်။ ဝိုင်ကီကီကမ်းခြေသောင်ပြင်သည် ထင်ရှားသော အပန်းဖြေစခန်းဖြစ်သည်။ ထိုကမ်းခြေတွင် ရေကူးခြင်း၊ ရေလွှာပြင် လျှောစီးခြင်း စသော ရေပြင်ကစားနည်းတို့ကို လေ့ကျင့် ကစားကြသည်။ ဧည့်သည်များ တည်းခိုရန်အတွက် ခေတ်မှီ ဟိုတယ်ပေါင်း များစွာရှိသည်။

ဟဝိုင်းယန်းကျွန်းစု၏ အဓိကထွက်ကုန်များဖြစ်သော သကြားနှင့် နာနတ်သီးတို့ကို ဟိုနိုလူလူဆိပ်ကမ်းမှ နိုင်ငံခြားသို့တင်ပို့ရောင်းချသည်။ မြို့တွင်း၌လည်း သကြားစက်နှင့် နာနတ်သီး စည်သွတ်စက်ရုံများ ရှိသည်။ ရှေးအခါက ဟဝိုင်းယန်းကျွန်းစုကို တိုင်းရင်းသား ဘုရင်တို့က အုပ်ချုပ်ခဲ့ ကြသည်။ ၁၈၉၈ ခုနှစ်မှစ၍ အမေရိကန်ပြည်ထောင်စု၌ နယ်တနယ်အဖြစ် ပါဝင်ခဲ့၍ ဘုရင်ခံတဦးက အုပ်ချုပ်ခဲ့ရသည်။ဟိုနိုလူလူမြို့တွင် လူဦးရေ ၂၉၃,၁၉၄ ယောက်(၁၉၆၀)ရှိသည်။ (ဟဝိုင်းယန်းကျွန်းစု — ရှု။)

**ဟိုပုန်းမြို့။** ။ ဟိုပုန်းမြို့သည် ရှမ်းပြည် တောင်ပိုင်း တောင်ကြီးခရိုင်၊ ဟိုပုန်းမြို့နယ်၏ မြို့ပိုင် ရုံးစိုက်မြို့ ဖြစ်သည်။ ၁၉၅၉ ခုနှစ် ဧပြီလ ၂၄ ရက်နေ့တွင် ပဒေသရာဇ် ရှမ်းစော်ဘွားများ အာဏာမစွန့်လွှတ်မီက ဟိုပုန်းသည် မြို့စား နယ်တနယ်ဖြစ်ခဲ့ရာ ထိုစဉ်က ဟိုပုန်းမြို့သည် ဟိုပုန်းမြို့စား၏ ရုံးစိုက်မြို့ဖြစ်လေသည်။ ယင်းသည် ရှမ်းပြည်နယ်၏ မြို့တော် တောင်ကြီးမှ အရှေ့စူးစူး ၁၂ မိုင်ကွာ အရပ်၌ တည်ရှိလေသည်။

ဟိုပုန်းဟူသော အမည်သည် မြို့နယ် တည်ရှိရာ ရေမြေကို အစွဲပြု၍ ခေါ်ဝေါ်ထားခြင်း ဖြစ်သည်။ အင်းလေးကန်၏ အရှေ့ဖက်ကမ်းရှိ တောင်တန်းနှင့် ပွန်ချောင်း (နမ့်ပွန်) အရှေ့ဖက်ရှိ လွယ်မယ် (လွယ်မောင်) တောင်တန်းတို့၏အကြား အနိမ့်ဆုံး အပိုင်းဖြစ်သည့် တံဘက်ချောင်းကြီးကို အမှီပြု၍ စိမ့်စမ်း ပေါများပြီးလျှင် လယ်ယာလုပ်ခင်း ကောင်းမွန်သော တံဘက်လျှိုကြီးရှိရာ ထိုလျှို မြောင်ကြီးကို ရှမ်းဘာသာဖြင့် ပုင်(ပုန်း)ဟု ခေါ်သည်။ ထိုတံဘက်လျှိုကြီး၏ အစသည် စိမ့်စမ်းများ၏ အဦးအထက်ပိုင်း (ရှမ်းဘာသာဖြင့် ဟို)၌ တည်ရှိသဖြင့် ထိုလျှိုကြီး၏ အစပိုင်း၌ တည်ရှိသည်ကို အစွဲပြု၍ ဟိုပုန်းဟု ခေါ်တွင်ခဲ့ခြင်း ဖြစ်လေသည်။

ရှေးလူကြီး သူမများ၏ အဆိုအရ အောက်မြန်မာနိုင်ငံတွင် မွန်တို့ မြို့ပြ နိုင်ငံ ထူထောင်နေသည့် ခေတ်အခါက ငဆော်ဘန်ဆိုသူ အမှူးပြုသော တောင်သူ လယ်သမားတစုတို့သည် ဟိုပုန်းမြို့ဖြစ်လာမည့် နေရာတွင် ချုံနွယ် ပိတ်ပေါင်းများကို ရှင်းလင်းခုတ်ထွင်ပြီးလျှင် လူနေအိမ်ခြေ စတင် တည်ထောင်ရာမှ တစတစနှင့် ရွာကြီးတရွာအဖြစ် တိုးတက်လာသည်။ ဟိုပုန်းရွာနှင့် မရှေးမနှောင်းပင် ဘန်ဖာရွာနှင့် နားခါးရွာတို့ကိုလည်း တည်ထောင်ကြသည်။ အခြေအနေ တိုးတက်လာသောအခါ ထိုရွာသုံးရွာ စုပေါင်း၍ ဘော်သား သုံးပိသာကို နှစ်စဉ် အခွန်ဘဏ္ဍာအဖြစ် မွန်ဘုရင်သို့ ဆက်သပြီးလျှင် မွန်ဘုရင်၏ ဘုန်းတော်ရိပ်အောက် ခိုလှုံကြသည်။ မွန်ဘုရင်ကလည်း ထိုရွာများကို အသိအမှတ်ပြုကာ ရွာစား နယ်ချုပ်များ ခန့်ထား အုပ်ချုပ်စေသည်။ နောင်အခါ မြန်မာမင်းများ လက်အောက်သို့ ကျရောက်၍ ဟိုပုန်းသည် မြို့စား အုပ်ချုပ်သော နယ်တနယ် ဖြစ်လာသည်။ ဗြိတိသျှအစိုးရလက်ထက်၌ရင်း၊ မြန်မာ့လွတ်လပ်ရေး ခေတ်၌ရင်း ရှိရာ မြို့စား အစဉ်အဆက်တို့ အုပ်ချုပ်သော မြို့စားနယ်တနယ်အဖြစ် ဆက်လက် တည်ရှိခဲ့သည်မှာ ပဒေသရာဇ်



ရှမ်းပြည်နယ်မှ တန်ခိုးကြီးဘုရားတဆူဖြစ်သော ဟိုပုန်းမြို့ ရွှေချမ်းသာစေတီ

ရှမ်းစော်ဘွားတို့ အာဏာ စွန့်လွှတ်သည့် နေ့ရက်တိုင်အောင် ဖြစ်လေသည်။ ယင်းသည့် နောက်တွင် မြန်မာနိုင်ငံ ပြည်မတွင်ကဲ့သို့ အုပ်ချုပ်ရေးစံနစ် ချမှတ်လိုက်သဖြင့် ဟိုပုန်း နယ်သည် မြို့နယ် တနယ်အဖြစ်သို့ ရောက်ရှိခဲ့လေသည်။

ဟိုပုန်းမြို့ပေါ်တွင် မြို့နယ် အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာနမှူးရုံး အစရှိသောမြို့နယ်အဆင့် ဦးစီးဌာနရုံးများ၊ ကော်ပိုရေးရှင်းများ၊ အစိုးရ အလယ်တန်း ကျောင်း တကျောင်းနှင့် မူလတန်းကျောင်းများ ရှိသည်။

မြို့နယ်၏ အကျယ်အဝန်းမှာ ၂၁၂ စတုရန်းမိုင် ရှိ၍ လူဦးရေ(၁၉၇၂ ခုနှစ်) ၆၇,ဝဝဝ ယောက်ရှိသည်။ ဗုဒ္ဓဝါဒီ ရှမ်းလူမျိုးနှင့် ပအိုးလူမျိုးများ အများအပြား နေထိုင်ကြရာ မြို့နယ်ဖြစ်သည်။ ပြောဆိုကြသော ဘာသာစကားမှာ ရှမ်းနှင့် ပအိုးစကားတို့မှလွဲလျှင် မြန်မာစကားကို ပြောဆိုလေ့ ရှိကြသည်။

မြို့ပေါ်နှင့် မြို့နယ်တွင် ထင်ရှားသော ရွှေချမ်းသာစေတီတော်ကြီးအပြင် ကြည်ညိုဖွယ်ကောင်းသော စေတီပုထိုးနှင့် ဘုန်းကြီးကျောင်း စုစုပေါင်း ၃ဝ ခန့် ရှိလေသည်။ ရှမ်းပြည်၏ တန်ခိုးကြီး ဘုရားများတွင် တဆူအပါအဝင် ဖြစ်သော ရွှေချမ်းသာ စေတီတော်ကြီးသည် ပုဂံပြည့်ရှင် အလောင်းစည်သူ မင်းတရား တိုင်းခန်း လှည့်လည်စဉ်က နယ်သူနယ်သားများ ကိုးကွယ်ရန် မိမိ ပင့်ဆောင်လာသော ဗုဒ္ဓရှင်တော်ဘုရား၏ ဓာတ်တော်စစ်ကို အဓိဋ္ဌာန်ပြု၍ ပွားလာသည့် ဓာတ်တော်ပွားအား ဌာပနာပြီးလျှင် တည်ထားပေးခဲ့သော စေတီဟု ဆိုကြသည်။ ဓာတ်တော် မွေတော်ကို ဌာပနာ၍ တည်ထားသဖြင့် ထိုစေတီကို မွေတော်ဟု ခေါ်ဝေါ်ကြသည်။ မူလက ဥာဏ်တော် ၁၂ တောင်မျှသာရှိရာ အမရပူရမြို့တည် နန်းတည် ဗဒုံမင်း (ဘိုးတော်ဘုရား) လက်ထက်တွင် ဟိုပုန်း မြို့စားကြီး ခွန်ကြားသည် မူလစေတီကို ငုံလျက် ဥာဏ်တော်အတောင် ၇ဝ ရှိသော စေတီတော်အဖြစ် ပြုပြင် မွမ်းမံတည်ဆောက်၍ အတောင် ၂ဝဝ ပတ်လည်ရှိ မဟာရာမ်တံတိုင်းကိုလည်း ဆောက်လုပ် လှူဒါန်းခဲ့သည်။ ဗြိတိသျှအစိုးရလက်ထက် ရှမ်းပြည်ကို ပဒေသရာဇ် ရှမ်းပြည်နယ်အဖွဲ့ဟူ၍ ဖွဲ့စည်းပြီးနောက် ခရစ် ၁၉၂၃ ခုနှစ်တွင် ရဟန်းရှင်လူအများ စုဝေး၍ ထိုစေတီတော်ကို နယ်၏ ကောင်းကျိုးနိမိတ်ကို ဆောင်စေရန် ရွှေချမ်းသာ စေတီဟု ဘွဲ့တော်သစ်ဖြင့် သမုတ်ခဲ့ကြလေသည်။ နှစ်စဉ် တန်ဆောင်မုန်း လပြည့်ကျော် ၆ ရက်တွင်တကြိမ်၊ တပေါင်းလပြည့်ကျော် ၆ ရက်တွင် တကြိမ် ဘုရားပွဲတော် ကျင်းပလေ့ရှိသည်။

မြို့နယ်အတွင်းရှိ အမြင့် ပေ ၉,ဝဝဝ နီးပါး ရှိသော လွယ်မယ်(လွယ်မောင်) တောင်ကြီးသည်ရှင်း၊ သာယာလှပသော ထန်းစန့်လိုဏ်ဂူကြီးသည်ရှင်း၊ သောက်သုံးရေ

အတွက် ဟိုပုန်းနယ် လူထုတို့ မှီခို အားထားနေရသော ဟိုပုန်းရေထွက်ကြီးသည်၎င်း ဟိုပုန်းမြို့နယ်၏ထင်ရှားသော ရှုခင်းသာများ ဖြစ်ကြလေသည်။

သနပ်ဖက် လုပ်ငန်းသည် ဟိုပုန်းမြို့နယ်၏ အဓိက လုပ်ငန်းဖြစ်၍ မြို့နယ်၏ အခြားထွက်ကုန်များမှာ အာလူး၊ ကြက်သွန်ဖြူ၊ ငရုတ်၊ ဂျုံ၊ မြေပဲ၊ စပါး၊ ကော်ဖီစေ့၊ လိမ်မော်သီးတို့ ဖြစ်ကြသည်။

ဟိုပုန်းမြို့သည် မိတ္ထီလာ – ကျိုင်းတုံ (ယိုးဒယား နယ်စပ်) မော်တော်ကား လမ်းမကြီးပေါ်၌ တည်ရှိသည်။ ကယားပြည်နယ်၏မြို့တော် လွိုင်ကော်သို့လည်း မော်တော် ကားလမ်းရှိရာ ၇၅ မိုင်ရှည်သည်။ သယ်ယူပို့ဆောင်ရေး အတွက် ထိုမော်တော်ကားလမ်းများ၊ နွားလားဝန်တင် လှည်း လမ်းကြောင်းများကို အသုံးပြုကြရ၍ မြို့နယ် အတွင်း လေကြောင်း၊ ရေကြောင်း ခရီးလမ်းများမရှိချေ။

**ဟိုးဂတ်,ဝီလျံ** (ခရစ် ၁၆၉၇–၁၇၆၄)။ ။ဝီလျံ ဟိုးဂတ်သည် ရုပ်ပြောင် ပန်းချီ ရေးဆွဲခြင်း၌ လက်စွမ်း ထက်သော အင်္ဂလိပ် အမျိုးသား ပန်းချီကျော် တဦးဖြစ် သည်။ သို့ရာတွင် ဟိုးဂတ်သည် လူတဦးတယောက်၏ ချွတ်ယွင်းချက်ကို ချဲ့ထွင်၍ သီးခြား ထုတ်ဖော်ခြင်းမပြုပဲ လူ့လောကတခုလုံး၏ အပြစ်အနာအဆာကို ပန်းချီကား ပေါ်တွင် ဖော်ကာ သရော်တတ်လေသည်။ ထို့ကြောင့် အလှအပနှင့် ခန့်ညားထယ်ဝါမှုကို အားပေးသော ထို ခေတ်တွင် သူ၏ ပန်းချီကားများကို ရုန့်ကြမ်းသည်ဟူ၍ အများက ဝေဖန်ခဲ့ကြ၏။ ယခုအခါ၌မူကား အင်္ဂလိပ် ပန်းချီပညာသမိုင်းတွင် ဟိုးဂတ်၏ လက်စွမ်းကို ချီးကျူး ဖော်ပြထားကြသည်။ အထူးသဖြင့် လူ၏မျက်နှာထားကို သရုပ်ဖော်ရာ၌ ထူးချွန် ပြောင်မြောက်သူ ဖြစ်ပေသည်။

ဝီလျံ ဟိုးဂတ်သည် ၁၆၉၇ ခုနှစ် နိုဝင်ဘာလ ၁၀ ရက် နေ့တွင် လန်ဒန်မြို့၌ ဖွားမြင်၍ ငယ်စဉ်ကတည်းက ပုံဆွဲ ပညာတွင် ထူးချွန်ခဲ့သည်။ ထို့ကြောင့် အသက် ၁၅ နှစ် အရွယ်တွင် ငွေပန်းထိမ်ဆရာတဦးထံ၌ အလုပ်ပညာသင် အဖြစ် ဝင်ရောက် လုပ်ကိုင်သည်။ အသက် ၂၂ နှစ်တွင် ကိုယ်ပိုင် ပန်းထိမ် လုပ်ငန်းကို တည်ထောင်သောအခါ စိတ်ကူးပုံစံထုတ်သူအဖြစ်၎င်း၊ ပုံထွင်းသူအဖြစ်၎င်း နာမည် ထွက်ပေါ်လာလေသည်။ ထို့နောက် စာအုပ်များတွင် သရုပ်ပြ ပုံများကို ရေးဆွဲသည်။ လူ ပုံတူများကိုလည်း ရေးဆွဲသည်။ ၁၇၂၉ ခုနှစ်တွင် ဟိုးဂတ်သည် နာမည် ကျော် ပန်းချီဆရာကြီး ဆာ ဂျိမ်း သွန်ဟီး၏ သမီး ဂျိန်း နှင့် တိတ်တဆိတ် ထွက်ပြေးပြီးနောက် လက်ထပ်၍ ပေါင်းသင်း နေထိုင်သည်။

ဝီလျံ ဟိုးဂတ်သည် လူ့လောကတွင် တွေ့ကြုံရသော



အင်္ဂလိပ်အမျိုးသား ပန်းချီကျော် ဝီလျံ ဟိုးဂတ်

ဟန်ဆောင်မှု၊ အဂတိလိုက်စားမှု၊ အသုံးအဖြုန်းလွန်ကဲ မှု၊ တိရစ္ဆာန်ညှဉ်းပန်းမှု အစရှိသည့် မကောင်းမှုတို့ကို မကြိုက်မနှစ်သက်သူ ဖြစ်သည့် အလျောက် ပန်းချီကား များဖြင့် ထိုမကောင်းမှုများကို သရုပ်ဖော်ခဲ့လေသည်။ သူသည် လူ့လောက အဖြစ်အပျက် ဇာတ်လမ်းကို ပန်းချီ ကား အချပ်ချပ်ဘို့ဖြင့် ပေါ်လွင်စေခဲ့သူဖြစ်ရာ လန်ဒန်မြို့ တိတ် အနုပညာ ပြတိုက်ရှိ "အထက်တန်းစားတို့၏ အိမ် ထောင်ရေး" ပန်းချီကားများသည် ၁၈ ရာစုခေတ် လူနေမှု စံနစ်ကို သရော်ထားသော ပုံများပင် ဖြစ်သည်။

ဟိုးဂတ်သည် ရှေးပန်းချီကျော်တို့၏ စံနစ်ကို အတု မယူပဲ မိမိ၏ ထိုးထွင်းဉာဏ်ဖြင့် စံနစ်သစ်ထွင်၍ ပုံများ ကို သဘာဝကျကျ ရေးဆွဲခဲ့သည်။ ထို့ကြောင့် သူရေးဆွဲ သော ပန်းချီကားများတွင် အသက်ဝင်လျက် ရှိပေသည်။ ဟိုးဂတ်သည် မိမိရေးဆွဲသော ပန်းချီကားများမှတဆင့် ပုံထွင်းလုပ်လေ့ ရှိသည်။ ပုံတူ ပန်းချီကား များကိုလည်း ရေးဆွဲခဲ့သည်။ ဟိုးဂတ်ရေးဆွဲခဲ့သော မိမိ၏ ပုံတူပန်းချီ လက်ရာများအနက် လန်ဒန်မြို့ နေရှင်နယ် ပန်းချီပြတိုက် တွင်ရှိသော ပုံတူပန်းချီကားသည် အကောင်းဆုံး လက်ရာ ဖြစ်ပေသည်။

ဝီလျံ ဟိုးဂတ်သည် ၁၇၆၄ ခုနှစ် အောက်တိုဘာလ ၂၆ ရက်နေ့တွင် ကွယ်လွန်သည်။ သူ၏လက်ရာ ပန်းချီ ကားများကို လန်ဒန်မြို့ရှိ ဆုန်းပြတိုက်၊ နေရှင်နယ်ပန်းချီ

မြိုတိုက်၊ နေရှင်နယ်ပုံတူ ပန်းချီပြတိုက်၊ တိတ်အနုပညာ ပြတိုက်၊ ဝင်ဆာရဲတိုက်၊ လမ်းဗက်နန်းတော်တို့တွင် တွေ့မြင်နိုင်လေသည်။

**ဟိုးမား။** ။ဟိုးမားသည် စာပေလောကတွင် ထင်ရှားသည့်"အစ်လယက်" နှင့် "အော့ဒိဆီ"အမည်ရှိ အက်ပစ်ကဗျာကြီး နှစ်ပုဒ်ကို စပ်ဆိုခဲ့သူအဖြစ် ကျော်ကြားသော ဂရိစာဆို ဖြစ်သည်။ (ဂရိဘာသာနှင့် စာပေ—လည်းရှု။) ရှေးခေတ် နိုင်ငံသမိုင်း ကျမ်းပြုဆရာကြီး ဟီရော့ဒိုးတပ်အလိုအရ ဟိုးမားသည် ဘီစီ ၈၅၀ ပြည့်နှစ်ခန့်က အာရှမိုင်းနားဖက်တွင် နေထိုင်ခဲ့သော ဂရိအမျိုးသားဖြစ်သည်။ သို့ရာတွင် ဂရိသမိုင်း ပညာရှင်တို့ပင်လျှင် ဟိုးမား မွေးဖွားရာ အရပ်ကို တပ်အပ်သေချာစွာ မညွှန်ပြနိုင် ကြချေ။ ထို့ကြောင့် စာဆိုကြီး အနိစ္စရောက်ပြီးနောက် မြို့ကြီးခုနစ်မြို့က မိမိတို့ မြို့သာလျှင် ဟိုးမား မွေးဖွားရာအရပ်ဖြစ်သည်ဟု အသီးအသီး အပြိုင်အဆိုင် ဂုဏ်ယူခဲ့ကြသည်။

ဟိုးမားသည် အရပ်ရပ်သို့ လှည့်၍ မိမိ၏ ကဗျာများကို ရွတ်ဆိုပြလေ့ရှိသော မျက်မမြင် အဖိုးအိုတယောက်ဟူ၍ ပြောစမှတ် ပြုကြသည်။ ပညာရှင်အချို့ကလည်း ထိုကဗျာများသည် စာဆိုတဦးတည်း၏ လက်ရာ မဖြစ်တန်ရာ ဟူ၍ ၎င်း၊ စာဆိုအများက ထရိုဂျန် စစ်ပွဲအကြောင်းကို စုပေါင်းစပ်ဆိုထားခြင်း ဖြစ်သည်ဟူ၍၎င်း ယူဆကြသေးသည်။ မည်သို့ပင် ဖြစ်စေ ဟိုးမား အမည်ရှိ ကဗျာစာဆိုတဦး ပေါ်ထွန်းခဲ့သည်ကို၎င်း၊ ထိုကဗျာများကို နှုတ်ဖြင့် ရွတ်ဆို၍ သားစဉ်မြေးဆက် လက်ဆင့်ကမ်းခဲ့ကြသည်ကို၎င်း ယခုအခါ သိရှိကြရသည်။ စင်စစ်အားဖြင့် ဟိုးမား၏ အစ်လယက်နှင့် အော့ဒိဆီ ကဗျာများသည် သူရဲကောင်း အာဇာနည်တို့၏ စွန့်စားခန်းကို သီကုံးစပ်ဆိုသော ကဗျာများတွင် အကောင်းဆုံး လက်ရာအဖြစ် ယခုထက်တိုင် ထင်ရှားလျက် ရှိပေသည်။ ထိုပြင် ရှေးခေတ် ဂရိ အမျိုးသားတို့၏ အယူဝါဒနှင့် စာပေကို၎င်း၊ လူနေမှုစံနစ်ကို၎င်း ဟိုးမား၏ ကဗျာများအားဖြင့် လေ့လာသိရှိ နိုင်ကြသည်။

အစ်လယက်နှင့် အော့ဒိဆီ ကဗျာများသည် ဂရိတို့က ထရွိုင်းမြို့တော်ကို တိုက်ခိုက်လုပ်ကြံသည့် စစ်ပွဲအကြောင်းကို အခြေခံထားသော ကဗျာများ ဖြစ်သည်။ ထရွိုင်းမြို့ကို အစ်လီယမ်မြို့ ဟူ၍လည်း ခေါ်ရာ အစ်လယက် ကဗျာသည် ထိုမြို့နှင့် သက်ဆိုင်သော သမိုင်းပုံပြင်ပင် ဖြစ်သည်။ အစ်လယက် ကဗျာတွင် ဂရိသူရဲကောင်း အကီးလီးသူရသတ္တိရှိပုံကို သီကုံးဖွဲ့ဆိုထား၍ အော့ဒိဆီ ကဗျာတွင် စစ်ပွဲမှ ပြန်လာသော ယူလီဆီခေါ် အိုဒိဆယုသည် လမ်းခရီး၌ စွန့်စားခဲ့ပုံကို စပ်ဆိုထားလေသည်။ (ဂရိဘာသာနှင့် စာပေ၊ ထရွိုင်းမြို့ပုံပြင် — လည်းရှု။)

ဂရိနှင့် ထရိုဂျန်တို့ စစ်ဖြစ်ရသည့် အကြောင်းမှာကား ထရိုဂျန်မင်းသား ပဲရစ်သည် စပါးတားဘုရင် မင်နီလေးအပ်ထံ ဧည့်သည်တော်အဖြစ် ရောက်ရှိလာရာ မိဖုရား ဟယ်လင်နှင့် ချစ်ကြိုက်မိလေသည်။ ပဲရစ်မင်းသားနှင့် ဟယ်လင်တို့သည်လည်း ထရွိုင်းမြို့သို့ ထွက်ပြေး၍ ပေါင်းသင်းနေထိုင်ကြသည်။ ထိုအခါ စပါးတား ဘုရင်သည် ထရိုဂျန်မင်းသား စော်ကားမှုကို လက်စားချေရန် အခြားသော ဂရိ မင်းညီမင်းသား အပေါင်းတို့ထံမှ စစ်ကူတောင်း၍ ထရွိုင်းမြို့သို့ ချီတက်တိုက်ခိုက်သည်။ ထိုစစ်ပွဲသည် ၁၀ နှစ်မျှ ကြာ၏။ နောက်ဆုံး၌ ထရွိုင်းမြို့တော်သည် ဂရိတို့၏ လက်တွင်းသို့ ကျရောက်ပျက်စီးခဲ့ရလေသည်။

ဟိုးမား၏ ကဗျာများကို ဂရိမြို့ရွာ အသီးအသီးတို့တွင် လှည့်လည် သီဆိုရာမှ အစ ယင်းတို့သည် တဖြည်းဖြည်း ထင်ရှားလာလေသည်။ ဘီစီ ၅၄၀ ပြည့်နှစ်ခန့်တွင် အက်သင်းမြို့၌ အုပ်စိုးခဲ့သော ပီဆစ်သရာတပ် လက်ထက်တွင် ထိုကဗျာများကို စုဆောင်း စီစဉ်၍ စာတင် စေခဲ့သည်ဟု ဆိုသည်။ ထိုနောက် ရောမ ကဗျာဆရာတို့က ဟိုးမား၏ ရေးဟန်ကို အတုယူ၍ ကဗျာများကို သီကုံးခဲ့ကြသည်။ ဥရောပတိုက်တွင် အလယ်ခေတ်၌ ဟိုးမား၏ ကဗျာတို့သည် တိမ်မြုပ်လျက် ရှိခဲ့သော်လည်း "ဉာဏ်သစ် အရေးပုံ" ဟု ခေါ်သော ပညာဉာဏ် ပြန်လည် သစ်ဆန်းလာသည့်ခေတ်ပေါ် ထွန်းလာသော အခါ၌မူကား ထို ကဗျာများသည် ရှေးဟောင်း စံပြစာပေအဖြစ် ပြန်လည်ထွန်းကား လာလေသည်။ ယခုအခါ အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုထားသော ဟိုးမား၏လက်ရာကို ကဗျာလင်္ကာ အဖွဲ့မျိုးဖြင့်၎င်း၊ စကားပြေ အဖွဲ့မျိုးဖြင့်၎င်း ဖတ်ရှုလေ့လာ နိုင်ကြလေသည်။ ဣတလီနိုင်ငံ၊ နေပယ်မြို့ရှိ အမျိုးသားပြတိုက်တွင် ရုပ်ထုဆရာ စိတ်ကူးဖြင့် ထုလုပ်ထားသော ဟိုးမား၏ ကိုယ်တပိုင်းပုံကို တွေ့မြင်နိုင်လေသည်။

**ဟက်စ,ရူးဒေါ့** (ခရစ် ၁၈၉၄—ဖွား)။ ။ရူးဒေါ့ဟက်စ၏ ဖခင်သည် ဗာဗေးရီးယန်းလူမျိုး ကုန်သည် တဦးဖြစ်သည်။ ဟက်စသည် အီဂျစ်နိုင်ငံ အယ်လက်ဇန္ဒြီးယားမြို့၌ ၁၈၉၄ ခုနှစ်တွင် ဖွားမြင်သည်။ ပဌမ ကမ္ဘာစစ်တွင် ဟက်စသည် ဗာဗေးရီးယန်း စစ်တပ်၏ ခြေလျင်တပ်တွင် ဗိုလ်အဖြစ် ထမ်းဆောင်ခဲ့၍ နောင်တွင် လေတပ်သို့ကူးပြောင်းကာ အမှုထမ်းခဲ့လေသည်။

စစ်ပြီးသောအခါ ဟက်စသည် နိုင်ငံရေးဖက်သို့ ကူးပြောင်းပြီးလျှင် အမျိုးသား ဆိုရှယ်လစ် ပါတီသို့ ၁၉၂၀ ပြည့်နှစ်တွင် ဝင်ရောက်ခဲ့လေသည်။ ၁၉၂၃ ခုနှစ်တွင် မျူးနစ်မြို့၌ ဖြစ်ပေါ်ခဲ့သော ဆူပူမှုတွင် ပါဝင်ခဲ့သဖြင့် ဟစ်တလာနှင့် အတူ အကျဉ်း ချထားခြင်းကို ခံခဲ့ရသည်။

ထိုစဉ်က သူသည် ဟစ်တလာ၏ အတွင်းဝန်လည်းဖြစ်သည်။ ကိုယ်ရံတော်လည်း ဖြစ်လေသည်။ ၁၉၃၂ ခုနှစ်တွင် သူသည် အမျိုးသား ဆိုရှယ်လစ်ပါတီ၏ နိုင်ငံရေး ဌာနမှူး ဖြစ်လာသည်။ ၁၉၃၃ ခုနှစ်တွင် ဖွဲ့စည်းသော အစိုးရအဖွဲ့၌ ဌာနလက်ကိုင်မရှိ ဝန်ကြီးတဦး ဖြစ်ခဲ့သည်။ ၁၉၃၉ ခုနှစ်၌ စစ်ဖြစ်လာသောအခါတွင် ဟက်စသည် ဟစ်တလာအား ဆက်ခံမည့်သူ အဖြစ် ကျေညာခြင်း ခံခဲ့ရပြန်သည်။

၁၉၄၁ ခုနှစ်တွင် ဟက်စသည် ငြိမ်းချမ်းရေးအတွက် အချက်အလက်များကို ယူဆောင်ပြီးလျှင် မေလအတွင်း၌ စကော့တလန်ပြည်သို့ လေကြောင်းဖြင့် သွားခဲ့သော်လည်း ဟစ်တလာကမူ ဟက်စ ထိုသို့ သွားခြင်းသည် သူ၏ အမိန့်အရ သွားခြင်းမဟုတ် ဟုဆိုလေသည်။ ဗြိတိသျှတို့ကလည်း ဟက်စ၏ ပြောဆိုချက်များကို နားမထောင်ပဲ စစ်အကျဉ်းသားအဖြစ် ချုပ်ထားလိုက်ကြလေသည်။ ထိုအချိန်တွင် ဟက်စသည် ရူးဟန် ဆောင်နေခဲ့သည်။ သို့သော် ၁၉၄၆ ခုနှစ်တွင် သူ့အား စစ်ရာဇဝတ်သား အဖြစ် နျူးရမ်းဗပ် (နူးရန်ဗာ့) မြို့၌အပြည်ပြည်ဆိုင်ရာစစ်ခုံရုံးကစစ်ဆေးသောအခါ ထိုအချိန်က ရူးဟန်ဆောင်ခဲ့ကြောင်း ဝန်ခံခဲ့လေသည်။ ထို ခုံရုံးက သူ့တွင် အပြစ်ရှိကြောင်း ထင်ရှားသဖြင့် ထောင်ဒဏ် တသက်တကျွန်း အပြစ် ပေးလိုက်လေသည်။

**ဟက်ဇ, အိပ်၊ အာ** (ခရစ် ၁၈၅၇ – ၁၈၉၄)။ ။ နှစ်ဆယ်ရာစု နှစ်အတွင်းတွင် လူများသည် တဦးနှင့်တဦး မိုင်ပေါင်းများစွာ ဝေးကွာလျက်နှင့် ဝိုင်ယာလက်ဖြင့် ဆက်သွယ် စကားပြောနိုင်ခြင်းမှာ ၁၉ ရာစု နှစ်အတွင်းက သိပ္ပံပညာရှင်များ၏ အသစ်တွေ့ရှိခြင်းများကြောင့် ဖြစ်လေသည်။ ထို သိပ္ပံပညာရှင်များတွင် ဟိုင်းနရစ် ရူးဒေါ့ ဟက်ဇလည်း တဦး အပါအဝင် ဖြစ်သည်။

ဟက်ဇသည်ဂျာမန် ရူပဗေဒပညာကျော်တဦးဖြစ်၍ သူသည် ဂျာမနီနိုင်ငံ ဟမ်းဗတ်မြို့၌ ၁၈၅၇ ခုနှစ် ဖေဖွာရီလ ၂၂ ရက်နေ့တွင် ဖွားမြင်သည်။ သူသည် ကျောင်းမှ ထွက်သောအခါ အင်ဂျင်နီယာ အတတ်ကို လေ့လာဆည်းပူးသည်။ သို့သော်သူ စိတ်ထက်သန်သော ပညာရပ်မှာ သိပ္ပံပညာရပ်ဖြစ်သဖြင့် အင်ဂျင်နီယာ အတတ်ကို စွန့်လွှတ်လိုက်လေသည်။ ထိုနောက်ဟက်ဇသည် မျူးနစ်တက္ကသိုလ် ရူပဗေဒ ပါရဂူကြီး ဟင်းမတိုး၏ လက်အောက်၌ ရူပဗေဒ ပညာရပ်များကို သင်ကြားသည်။ ၁၈၈၃ ခုနှစ်တွင် ကီးအရပ်သို့ သွားရောက်ကာ မက္ကဆွဲ၏ လျှပ်စစ်အားနှင့် သံလိုက်အားတို့ ဆက်သွယ်ပုံကို လစာ်တွေ့စမ်းသပ်လေ့လာကြည့်သည်။ ထိုအခါ သူသည် လျှပ်စစ်သံလိုက် လှိုင်းများသည် အလင်းလှိုင်းများနှင့် သဘောချင်း အတူတူပင် ဖြစ်ကြောင်းကို လက်တွေ့ ပြသနိုင်ခဲ့သည်။ ဟက်ဇသည် အဆိုပါ လျှပ်စစ်သံလိုက်လှိုင်းများ၏သဘောနှင့် ယင်းတို့တည်ရှိပုံကို သိပ္ပံလောကသို့ တင်ပြလိုက်သဖြင့် သူ၏ နာမည်ကို အစွဲပြု၍ ထိုလှိုင်းများကို ဟက်ဇီးယန်လှိုင်းများဟု မှည့်ခေါ်ခဲ့ကြလေသည်။

လျှပ်စစ် သံလိုက်လှိုင်းများကို အခြေပြု၍ ဝိုင်ယာလက် ကြေးနန်း ဆက်သွယ်မှုများ ပေါ်ပေါက် လာလေသည်။ အီသာထဲ၌ အလင်းလှိုင်းများ ရှိနေသကဲ့သို့ လျှပ်စစ်သံလိုက်လှိုင်းများလည်း ရှိသေးကြောင်းကို လက်တွေ့ပြသလိုက်သောအချိန်၌ ဟက်ဇမှာ အသက်၃၀မျှသာရှိသေး၏။

ဟက်ဇသည် လျှပ်စစ် သံလိုက်လှိုင်းများ၏ အရှည်နှင့် အမြန်ကို တိုင်းတာနိုင်ခဲ့ပြီးလျှင် ထိုလှိုင်းများသည် အလင်းလှိုင်းများကဲ့သို့ တစက္ကန့်တွင် မိုင်ပေါင်း ၁၈၆,၀၀၀ သွားနိုင်ကြောင်း ပြနိုင်လေသည်။ ထိုပြင် ထို လှိုင်းများသည် အလင်းလှိုင်းများနည်းတူလှိုင်းပြန်ခြင်း၊လှိုင်းယိုင်ခြင်းများ ရှိပုံတို့ကိုပါ ရှာဖွေတွေ့ရှိခဲ့လေသည်။

တဆဲ့ကိုးရာစုနှစ်အတွင်း၌ ဟက်ဇတွေ့ရှိခဲ့သော ရူပဗေဒပညာသစ်အားဖြင့် မျက်မှောက်ခေတ်တွင် ကမ္ဘာ့အရပ်ရပ်မှ သတင်းစုံကို စက္ကန့်ပိုင်းလောက် ခြား၍ ရေဒီယို၊ ဝိုင်ယာလက်တို့ဖြင့် ကြားနိုင်ကြ၏။ သတင်း ပို့နိုင်ကြ၏။

သို့သော် သိပ္ပံပညာရှင်ကြီး ဟက်ဇသည် သက်ဇိုးမရှည်ပဲ နာတာရှည် ရောဂါဖြင့် ၁၈၉၄ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့ အသက် ၃၇ နှစ် အရွယ်တွင် အနိစ္စ ရောက်သွားလေသည်။

**ဟက်ဒင်ငါး။** ။ဟင်းလျာအဖြစ် အရေးကြီးသော ငါးတမျိုးဖြစ်သည့် ဟက်ဒင် ငါးသည် ကော့ဒငါး ပါဝင်သည့် ဂက်ဒီဒီးမျိုးရင်း၌ပင် ပါဝင်သည်။ ထို ငါးအမြောက်အမြားကို ဗြိတိသျှကျွန်းစုတဝိုက်နှင့် မြောက်ပင်လယ်အတွင်း၌ တွေ့နိုင်၍ နွေအခါတွင် အမေရိကန်နိုင်ငံ မက်ဆချူးဆက်ပြည်နယ်၏ ကမ်းခြေတလျှောက်တွင် တွေ့နိုင်သည်။ များသောအားဖြင့် နှစ်ပေပင် မပြည့်တတ်သော်လည်း တခါတရံတွင် သုံးပေအထိ ကြီးသော ဟတ်ဒင်ငါးများကို တွေ့ရတတ်သည်။

ဟက်ဒင်ငါးနှင့် ကော့ဒငါး၏ ခြားနားချက်မှာ ဟက်ဒင်ငါး၌ ထူးခြားသည့် အမည်းစင်းတစင်းသည် ဦးခေါင်းမှ အမြီးတိုင်အောင် ရှိနေခြင်း၊ ပါးစပ်သေးငယ်ခြင်းနှင့် ကျောပေါ်ရှိ ပဌမ ငါးဆူးတောင် ပို၍ ရှည်ခြင်းဖြစ်သည်။ ဟက်ဒင်ငါးများသည် အုပ်ဖွဲ့၍ ရွှံ့နွံ၊ သို့မဟုတ်သဲထူထပ်သော ပင်လယ်အောက်ခြေတွင် နေထိုင်တတ်ကြသည်။ အစာကို ပင်လယ်၏ အောက်ခြေ၌ စားသောက်ကြသည်။

ဟက်ဒင်ငါးကို ပါဏဗေဒအလိုအရ မီလန်နိုဂရမ်မပ် အီးဂလီဖီနပ်ဟု ခေါ်သည်။

# ဝေါဟာရ နှင့် အသံလှယ်အမည်များ

ဤကျမ်းတွင် ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသော ပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံး ပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလိုပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားသော အမည်များ မြောက်မြားစွာပါရှိသည်။ ဤကျမ်းတွင်ပါဝင်သော ဝေါဟာရနှင့် အသံလှယ်ယူထားသောအမည်တို့ကို မူရင်းစကားနှင့်တကွ အောက်တွင် အက္ခရာစဉ်အတိုင်း ဖော်ပြထားသည်။ ထုတ်ဝေပြီးအတွဲများတွင် ဖော်ပြပါရှိပြီးဖြစ်သော ဝေါဟာရများနှင့် အသံလှယ် အမည်များကိုမူ အောက်ပါစာရင်း၌ ထပ်မံဖော်ပြခြင်းမပြုပါ။

## ဝေါဟာရများ

| | |
|---|---|
| ကာစတီးပြည် | Castile |
| ကာဟူးလာဝီး ကျွန်း | Kahoolawe Is. |
| ကာအူးအီး ကျွန်း | Kauai Is. |
| ကူးရေး ကျွန်း | Kura Is |
| ကေးယပ် ကောလိပ်ကျောင်း | Caius College |
| "ကက်စတာဗရစ် မြို့တော်ဝန်" | "The Mayor of Casterbridge" |
| ကက်ရှမီယာ ဆိတ် | Cashmere Goat |
| ကောင်စစ်ဝန် | Consul |
| ကျားဗဟုန်း (သစ်ခွ) | Grammatophyllum Speciosum |
| ကြက်တူရွေး (သစ်ခွ) | Aerides Multiflorum |
| ကြောင်မြီးတူ (သစ်ခွ) | Rhyncostylis Retusa |
| ကုတ္တေ မြို့ | Cotte |
| ကမ္ဘာ့ သံလိုက်ဓာတ် | Earth's Magnetism |
| ခဲမောက်ကြိုး (သစ်ခွ) | Dendrobium Pierardi |
| ခါစဗက် မြို့ | Khorsabad |
| ဂါလေ မြို့ | Galle |
| ဂေါ်ဒွင်,အားဘွဲ့ရ | Godwin, Earl |
| ဂေါ်မိတ် | Zircon |
| ဂေါ်နေအိဗ ပင်လယ်ကွေ့ | Gonaives, Gulf of |
| "ဂျာရီယွန် နွားထီးကြီး" | "Ox of Geryon" |
| ဂျိုင်ရို အိမ်မြှောင် | Gyro-Compass |
| ဂျွန်စတန် ကျွန်း | Johnston Is. |
| ညောင်သဖြေ | Ficus Glomerata |
| စတင်ဖာလပ် ရေအိုင် | Stymphalus Lake |
| စမီရနာ မြို့ | Smyrna |
| စာပတီး ဖင်ဖြူ | White-Rumped Munia |
| စစ်ထုတ်ခြင်း | Leaching |
| စိန့်တောမတ် ကက်သလစ် တက္ကသိုလ် | Catholic University of St. Thomas |
| "စိန့်အင်ဒရူး၏ အရာရှိများ" | "Officers of St. Andrew" |
| "စိမ်းရောင်စို သစ်ပင် အောက်" | "Under the Greenwood Tree" |
| ဆဂွာရို ရှားစောင်း | Saguaro |
| ဆဆဖရတ် ပင် | Sassafras |
| ဆီကွိုင်းယား ပင် | Sequoia |
| ဆီမစ်တစ် ဘာသာ | Semitic Language |
| ဆင်သဖန်း | Ficus Roxburghii |
| ဆင်းလက် တောင်ကုန်း | Senlac Hill |
| ဆင်းဒဝစ် ကျွန်း | Sandwich Is. |
| တရုပ် သဲသစ်သော့ | Chinese Sand Pear |

| | |
|---|---|
| တာဝန်ခံ သံမှူး | Charges D'affaires |
| တူလီပင် | Tule, Tree of |
| တောင်သပြေ | Tristania Burmanie |
| "တိုင်းရင်းသား အိမ်ပြန်ခန်း" | "The Return of the Native" |
| ထရင်ကိုမလီမြို့ | Trincomalee |
| ထရိုင်အုပ်ပြွန် | Triode Tube |
| ဒိုင်အုတ်ပြွန် | Diode Tube |
| ဒိုင်းမွန်း ကျွန်း (သမီးလှကျွန်း–လိပ်ကျွန်း) | Diamond Island |
| ဓာတ်ခေါင်း | Electrode |
| ဓာတ်ငွေ့ဆက်နည်း | Gas Welding |
| ဓမ္မသစ်ကျမ်း | New Testament |
| ဓမ္မဟောင်းကျမ်း | Old Testament |
| နာဝပ်ရှား မြို့ | Nawabshah |
| နီဟိုးအား ကျွန်း | Nihoa Is. |
| နီအီးဟအူး ကျွန်း | Niihau Is. |
| နက္ကာ ကျွန်း | Necker Is. |
| နျူမက်တစ် ပြွန် | Pneumatic Tube |
| နှလုံးကျုံ့ချိန် သွေးတိုးအား | Systolic Pressure |
| နှလုံးပွချိန် သွေးတိုးအား | Diastolic Pressure |
| နှင်းသပြေ | Malay Apple |
| နှင်းသစ်တော် | Snow Pear |
| ပဌမ ကာမိဟာမိဟာဘုရင် | Kamehameha I, King |
| ပထဝီပြ မြောက်အရပ် | Geographical North |
| ပဒဲကျောက် | Garnet |
| ပရွက်စားကောင် | Ant Eater |
| ပလာ ပြွန် | Vacium Tube |
| ပီနီယပ် မြစ် | Peneus R. |
| ပီဗင်ဆီ ပင်လယ်အော် | Pevensey Bay |
| ပယ်မိုင်းရား ကျွန်း | Palmyra Is. |
| ပေါ့က ရေလက်ကြား | Polk Strait |
| ပေါဠနာရုဝ မြို့ | Polanaruwa |
| ပို့-အို-ပရင့်စ မြို့ | Port-Au-Prince |
| ပန်းဘဲဖိုဆက်နည်း | Forge Welding |
| ပျူတာ သတ္တုစပ် | Pewter |
| ပျော့ကြောင်းသံမှို | Grooved Nail |
| ပြည်တော်နေသံငယ် | Minister Resident |
| ဖာရိုး ကျွန်း | Faroe Is. |
| ဖိနပ်သစ်ခွ | Slipper Orchid orLady's Slipper |
| ဖုတ်စတုန်းမြို့ | Folkestond |
| ဗဟိဒ္ဓလောက ဗေဒ | Cosmology |
| ဗာဗာရီ ချုံပင် | Shrub Barberry |
| ဗာဗစ်သတ္တုစပ် | Babbitt's Metal |
| ဗီအိုးရှား နယ် | Beotia |
| မာလီယက် ပင်လယ်ကွေ့ | Maliac Gulf |
| မာအူးအီး ကျွန်း | Maui Is. |
| မီရပူခတ် မြို့ | Mirapurkhas |
| မိလီတပ် မြို့ | Miletus |
| မီးစွယ်ဆက်နည်း | Arc Welding |

| | |
|---|---|
| မူရှိဒဗတ် မြို့ | Murshidabad |
| မယ်ရီနိုသိုး | Merino Sheep |
| မော်ကား, အားဘွဲ့ရ | Morcar, Earl of |
| မိုလိုကာအီး ကျွန်း | Molokai Is. |
| မိုးလုံးမှိုင်း (သစ်ခွ) | Vanda Coerulea |
| မက္ကာ ဒန်းပင် | Mecca Balsam |
| မိုက်ခွက် | Cupel |
| မောက်ခန်းဝါ (သစ်ခွ) | Dendrobium Chrysotoxum |
| မစ်ဒဝေး ကျွန်း | Midway Is. |
| မဏ္ဍိုင် ပင် | Spar Tree |
| မျိုးစေ့ဖော် | Gymnosperms |
| မျိုးစေ့ဝှက် | Angiosperms |
| "မျက်လုံးပြာတစုံ" | "A Pair of Blue Eyes" |
| ယထာဘူတ ဗေဒ | Ontology |
| ယူရိပေါ့ ရေလက်ကြား | Euripos, Gulf of |
| ယုတ္တိဗေဒ | Logic |
| ရတနာ့ရွှေခက် (သစ်ခွ) | Dendrobium Aggregatum |
| ရဟတ်ယာဉ် | Helicopter |
| ရေပြင်ညီထိန်း ကွင်း | Gimbal |
| ရေသပြေ | Syzygium Aquea |
| ရေသဖန်း | Ficus Laceolata |
| "ရယ်နေသော မြင်းသည်တော်" | "Laughing Cavalier" |
| ရှိုးဆက်ကြီး (သစ်ခွ) | Vanda Teres |
| ရစ်ကက် ရောဂါ | Ricket |
| ရှားရိုးနီးယား တိုက်ပွဲ | Chaeronia, Battle of |
| ရွှေတူငွေတူ (သစ်ခွ) | Dendrobium |
| လာနားအီး ကျွန်း | Lanai Is. |
| လီယိုဖရစ်, အားဘွဲ့ရ | Leofric, Earl of |
| လေဆန် ကျွန်း | Layson Is. |
| လောကနီတိဆိုင်ရာ ဒဿနိကဗေဒ | Ethics |
| လောဂျစ်ကယ် ပေါ်စတစ်ဝါဒ | Logical Positivism |
| လက်တံရှည် (ဇလဲထော်၊ စလထော်) (သစ်ခွ) | Dendrobium Moschatum |
| လှေကားရှင် | Escalator |
| လျှပ်စစ်ခုခံအားဆက်နည်း | Resistance Welding |
| လျှပ်စစ်ဖြင့် ဓာတ်ခွဲခြင်း | Electrolysis |
| ဝါအီအာလီအာလီ တောင် | Waialeale, Mt. |
| "ဝက်ဆက် ကဗျာများ" | "Wessex Poems" |
| သဇင် | Bulbophyllum Auricomuni |
| သပြုသပြေ | Rose–Apple (Syzygium Jambos) |
| သပြေကြီး | Syzygium Grande |
| သပြေကျွဲခေါင်း | Syzygium Claviflorum |
| သပြေချဉ် | Syzygium Caerasoideum |
| သပြေဆတ်ချေး | Syzygium Oblatum |
| သပြေညို | Eugenia Kinzii |
| သပြေနီ | Syzygium Fruticosum |
| သပြေ ပေါက်ပေါက် | Syzygium Syzygioides |
| သပြေဖြူ | Syzygium Cumini |
| သပြေရွက်ကြီး | Syzygium Thumra |

